အရှင်ဇနကာဘိဝံသ

၏

# တစ်ဘဝ
# သာသနာ



## အရှင်ဇနကာဘိဝံသ

၏

# တစ်ဘဝသံသရာ



အရှင်ယောသိတ

# တစ်ဘဝသာသနာ
# ပုံနှိပ်မှတ်တမ်း


ဘာသာရေးဆိုင်ရာ စာမူခွင့်ပြုချက်

အမှတ် (၂၅၇ / ၂၀၀၀) (၅)

စာအုပ်စာတမ်း စာနယ်ဇင်း မျက်နှာဖုံး

ပုံနှိပ်ထုတ်ဝေခွင့်ပြုချက်အမှတ် (၂၂၆ / ၂၀၀၀) (၅)

| | |
|---|---|
| ခုနှစ် | ၂၀၀၃-ခုနှစ်၊ မတ်လ |
| အုပ်ရေ | ၄၀၀၀ |
| အကြိမ် | စတုတ္ထအကြိမ် |
| တန်ဖိုး | |
| ကွန်ပျူတာစာစီ | နယူးဘားမား မဟာဂန္ဓာရုံ<br>အမရပူရမြို့ |
| ထုတ်ဝေသူ | ဦးမောင်မောင် (မြ-၀၃၂၇၁)<br>မဟာဂန္ဓာရုံစာပေ ပိန်းတန်းရပ်<br>အမရပူရမြို့ |
| ပုံနှိပ်သူ | ဦးမောင်မောင် (မြ-၀၁၈၂၄)<br>နယူးဘားမားအော့(ဖ်)ဆက်<br>ပိဋကပုံနှိပ်တိုက်၊ မဟာဂန္ဓာရုံ<br>မြင်းမူကျောင်း၊ အမရပူရမြို့။ |

# သာသနာ့ကျေးဇူးရှင်များသို့

လောကသားတို့၏ အကျိုးစီးပွားချမ်းသာအတွက်
ဗုဒ္ဓအလိုတော်ကျ ဆောင်ရွက်တော်မူလာကြသော
သာသနာတော်စောင့် လဇ္ဇီပုဂ္ဂိုလ်များအား
ကျေးဇူးတုံ့ပြန်ပေးဆပ်သောအားဖြင့်
ဤ"တစ်ဘဝသာသနာ"ကျမ်းစာကို
ရည်စူးထုတ်ဝေပါသည်။

အနာဂတ်သာသနာတော်အတွက်
ရေးသားတင်ပြသွားခဲ့သမျှ သဘောတရားများကို
လက်တွေ့အကောင်အထည်ဖော် ဆောင်ရွက်သွားခဲ့သော
ကျေးဇူးတော်ရှင် မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသအား
ဤကျမ်းစာဖြင့် ပူဇော်ပါသည်။

သာသနာတော်မြတ်, တရားစာတ်, လွှမ်းပတ်ကမ္ဘာ တည်စေသော်။

သာသနာသက္ကရာဇ် ၂၅၂၇ ခု
ကောဇာသက္ကရာဇ် ၁၃၄၅ ခု တပို့တွဲလကွယ်နေ့
၁၉၈၄ ခု မတ်လ ၁ ရက်

# မာတိကာ

# မာတိကာ

# မာတိကာ

# မာတိကာ

# မာတိကာ



**မာတိကာပြီး၏။**

## သင်...သေသွားသော်

လူပြည်လောက
လူ့ဘဝကား
အိုရ နာရ
သေရဦးမည်
မှန်ပေသည်တည့်။

သို့တပြီးကား
သင်သေသွားသော်
သင်ဖွားသောမြေ
သင်တို့မြေသည်
အခြေတိုးမြင့်
ကျန်ကောင်းသင့်၏။

သင်၏မျိုးသား
စာစကားလည်း
ကြီးပွားတက်မြင့်
ကျန်ကောင်းသင့်၏။

သင်ဦးချ၍
အမျှဝေရာ
စေတီသာနှင့်
သစ္စာအရောင်
ဉာဏ်တန်ဆောင်လည်း
ပြောင်လျက်ဝင်းလျက် ကျန်စေသတည်း။

ဇော်ဂျီ

# ကျမ်းဦးသိဖွယ်

**နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။**



## ဗုဒ္ဓမြတ်စွာပွင့်တော်မူခြင်း

ယခု သာသနာနှစ် ၂၅၂၇-ခုနှစ် အချိန်မှ နောက်ပြန်ရေတွက်ပါလျှင် လွန်ခဲ့သော နှစ်ပေါင်း (၂၅၂၇+၈၀) ၂၀၆၇-ခုနှစ်က မဇ္ဈိမဒေသ အိန္ဒိယပြည်တွင် လူ နတ် ဗြဟ္မာ သတ္တဝါအားလုံး၏ အကျိုးစီးပွားကို ဆောင်ရွက်မည့် လူသားတစ်ဦး ထူးထူးခြားခြား မွေးဖွားခဲ့ပါသည်။ (ခရစ်မပေါ်မီ ဘီစီ-၆၀၀ ခန့်က ဖြစ်၏။)

မွေးဖွားခဲ့ပြီးနောက် အရွယ်ရောက်သောအခါ 'ယခုခေတ် ကာမဂုဏ်စည်းစိမ်များကို ခံစားခွင့်ရ၍ ချမ်းသာကြွယ်ဝ ပြည့်စုံလှပါသည်ဆိုသော သူများထက် သာလွန်သော' နတ်စည်းစိမ်တမျှ ခမ်းနားကြီးကျယ်လှသော လောကီစည်းစိမ်ကြီးနှင့်တကွ မင်းအဖြစ်ကို ရခဲ့ပါသည်။

သို့ရာတွင် သက်တော် ၂၉-နှစ်သို့ ရောက်သောအခါ ယင်းစည်းစိမ်အားလုံးကို မတွယ်မတာ စွန့်ခွာ၍ တစ်ကိုယ်တည်း တောထွက် တရားကျင့်တော်မူခဲ့သည်မှာ အများသူငါ စွန့်နိုင်ခဲ, ကျင့်နိုင်ခဲသောအရာသာ ဖြစ်ပါသည်၊ ထိုသို့ ကျင့်ကြံကြိုးကုတ် အားထုတ်လာခဲ့ရာ ၆-နှစ်တာမျှ ကြာသောအခါ သိစရာဟူသမျှ ဘာမျှမကျန် အကုန်သိစွမ်းနိုင်သော သဗ္ဗညုတဉာဏ်တော်ကြီးကို ရ၍ ဗုဒ္ဓအဖြစ်သို့ ရောက်တော်မူပါသည်၊ ထိုအခါ သက်တော် ၃၅-နှစ်မျှ ရှိပါသေးသည်။

လောကအလုံးတွင် အကျင့်မြတ်တရားနှင့် အသိဉာဏ်အရာတွင် မည်သည့် လူနတ်ဗြဟ္မာ တစ်စုံတစ်ဦးတစ်ယောက်မျှ ယှဉ်ပြိုင်ခြင်းငှာ မစွမ်းနိုင်သော (အတုမဲ့ပုဂ္ဂိုလ်) အထွတ်အမြတ် ပုဂ္ဂိုလ်ကြီးအဖြစ်သို့ရောက်ခဲ့ပါသည်၊ ဤသို့ဖြစ်လာအောင် ဆင်းရဲဒဏ် အပင်ပန်းခံ၍ ကျင့်ကြံခဲ့သည်မှာ မိမိကိုယ်ကျိုးအတွက် မဟုတ်ပါ၊ အများအကျိုးအတွက်သာ ရည်မှန်းလာခဲ့ခြင်း ဖြစ်ပါသည်။

## သတ္တဝါများ၏ အကျိုးစီးပွားကို ဆောင်ရွက်တော်မူခြင်း

ထိုသို့ အတုမဲ့ပုဂ္ဂိုလ်မြတ်ကြီး ဖြစ်လာပြီးနောက် တစ်မြို့မှ တစ်မြို့, တစ်နယ်မှ တစ်နယ်, တစ်ရွာမှ တစ်ရွာသို့ ကြွကာ ကြွကာ ဒေသစာရီလှည့်လည်ရင်း လူနတ်ပြဟ္မာ များစွာသော သတ္တဝါတို့၏ ပစ္စုပ္ပန် သံသရာအကျိုး, လောကီ လောကုတ္တရာ အကျိုးတို့ကို အကြွင်းမဲ့ သယ်ပိုးဆောင်ရွက်တော်မူခဲ့ပါသည်။



မြတ်ဗုဒ္ဓပွင့်တော်မူရာ မဟာဗောဓိစေတီတော်

ထိုသို့ ဆောင်ရွက်ရာ၌ နေ့အားရက်အားမထား အနားမယူ ၄၅-နှစ်ပတ်လုံး မညည်းမညူဘဲ သက်တော် ၈၀-ပြည့်၍ ပရိနိဗ္ဗာန်စံသည့်တိုင်အောင် ရွက်ဆောင်တော်မူခြင်း ဖြစ်ပါသည်၊ နေ့အားရက်အား အနားမယူရုံသာမက နေ့စဉ် တစ်နေ့ တစ်နေ့လျှင် ၂၄-နာရီရှိသည့်အနက် ၁-နာရီနှင့်မိနစ် ၂၀-မျှသာ ကျန်းမာရေးအကျိုးငှာ ချန်ထား၍ ကျန် ၂၂-နာရီနှင့် မိနစ် ၄၀-ပတ်လုံး မရပ်မနား အများအကျိုးသက်သက် အလုပ်လုပ်တော်မူသွားခဲ့ပါသည်၊ ထို့ကြောင့် တစ်နှစ်လျှင် နာရီပေါင်း (၈၁၇၆)မျှ အလုပ် လုပ်တော်မူ၍ ပရိနိဗ္ဗာန်စံသည့်တိုင်အောင် နာရီပေါင်း (၃၆၇၉၂၀)မျှ အလုပ်လုပ်၍ သွားတော်မူခဲ့ပါသည်။

ထို့ကြောင့် ကမ္ဘာ့သမိုင်းတွင် မည်သူမျှ မယှဉ်နိုင်သည့် (စံ)လွန်သော ပုဂ္ဂိုလ်ထူးကြီး ဖြစ်ခဲ့ပါသည်၊ ထိုမျှလောက် အလုပ်လုပ်တော်မူခဲ့သည်မှာ မိမိကိုယ်ကျိုးအတွက် တစ်ခုမျှ မပါ၊ အများသတ္တဝါတို့၏ အကျိုးသက်သက်သာ ဖြစ်ပါသည်၊ ဤအချက်ကို စိတ်ဝင်စားနေမိခဲ့ပါသည်။

## ကျေးဇူးသိတတ်သော သာဝကကြီးများ

**ပထမသင်္ဂါယနာ** ဗုဒ္ဓမြတ်စွာ ပရိနိဗ္ဗာန်ပြုတော်မူ၍ အန္တိမစျာပနပွဲကြီးတွင် သံဃာတော်များစွာ စုမိလျက် ရှိပါသည်၊ ထိုပွဲကြီးတွင် **အရှင်မဟာကဿပ** မထေရ်ကြီးက သာသနာ့ဝတော် နောင်ရေးအတွက် ဤသို့ စဉ်းစားပါသည်။

"ဗုဒ္ဓမြတ်စွာက ငါ့ကို သံဃာတော်များအလယ်၌ မကြာမကြာ ချီးမွမ်းတော်မူခြင်း, တန်းတူထား၍ ချီးမြှောက်တော်မူခြင်း, သင်္ကန်းချင်းလဲ၍ ဝတ်တော်မူခြင်းတို့သည် အကြောင်းမဲ့ မဟုတ်၊ သာသနာတော်အတွက် ဆက်လက် ထိန်းသိမ်းစေတော်မူလို၍ ဖြစ်ပေသည်၊ ဤကြွေးမြီတို့ကို ပြေလည်ရန် သင်္ဂါယနာတင်၍ ဆပ်ခြင်းမှတစ်ပါး အခြားနည်းလမ်း မရှိပြီ" ဤသို့ စဉ်းစားတော်မူပြီးလျှင် အန္တိမစျာပနပွဲကြီးအပြီး တစ်ဆက်တည်းပင် ရှေ့လုပ်ငန်းခွင်အတွက် ဤသို့ မိန့်မြွက်တော်မူပါသည်။...

"ငါ့ရှင်တို့...ယခုအခါ သာသနာ့ရန်စွယ် အန္တရာယ်ဖြစ်စေမည့် သုဘဒ္ဒကဲ့သို့သော ပုဂ္ဂိုလ်များ ပေါ်ပေါက်နေချေပြီ၊ ထိုကဲ့သို့သော အဓမ္မဝါဒီပုဂ္ဂိုလ်များ မပြန့်ပွားမီ, ဓမ္မဝါဒီပုဂ္ဂိုလ်များလည်း မလျော့ပါးသေးမီ ဗုဒ္ဓမြတ်စွာ၏ တရားတော်တို့ကို စုစည်း၍ သင်္ဂါယနာ တင်ထားကြကုန်စို့"

ဤကဲ့သို့ သံဃာ့မဟာထေရ်ကြီးများနှင့် တိုင်ပင်တော်မူကြပြီးလျှင် ဘုရားရှင်၏ ထိုထိုဒေသ၌ ဟောတော်မူခဲ့သော ဒေသနာတော်များကို စုစည်း၍ (ဝိနည်း, သုတ္တန်, အဘိဓမ္မာ) တူရာတူရာ ပေါင်းလျက် ပဋိသမ္ဘိဒါပတ္တ ရဟန္တာမထေရ်ကြီး ငါးရာဖြင့် ပထမသင်္ဂါယနာတင်တော်မူခဲ့ကြပါသည်။

ဤပွဲတွင် အနှောင့်အယှက်ကင်း၍ အောင်မြင်ခြင်းဖြစ်စေရန် **အဇာတသတ်မင်း**ကို အကူအညီယူရ၏၊ ဤအချက်မှာ သာသနာပြုရာ၌ ဆရာ, ဒကာ နှစ်ဖြာပူးတွဲရကြောင်း ထုံးဟောင်းသာဓကပင် ဖြစ်ပါသည်၊ ဤသို့ သင်္ဂါယနာ တင်ပြီးသောအခါတွင်လည်း ဝိနည်း, သုတ္တန်, အဘိဓမ္မာတို့ကို ဆိုင်ရာပုဂ္ဂိုလ်တို့က ဆိုင်ရာတပည့်တို့အား ဆက်လက်ပို့ချသွားရန် စီမံညွှန်ကြားတော်မူကြပါသည်။

အရှင်မဟာကဿပမထေရ်မြတ်ကြီးသည် ဒကာတော် အဇာတသတ်ဘုရင်နှင့် တွဲဖက်စီမံကြ၍ ဘုရားရှင်၏ ဓာတ်တော်တို့ကိုလည်း နောင်လာမည့် အနာဂတ်သာသနာအတွက် လုံခြုံအောင် တစ်စုတပေါင်းတည်း စီစဉ်ထားရှိတော်မူခဲ့ပါသည်။

ဤသို့လျှင် မထေရ်မြတ်ကြီးတို့သည် ပစ္စုပ္ပန်သာသနာအတွက်သာမက အနာဂတ်သာသနာ အတွက်ပါ ကြိုတင်ဆောင်ရွက်တော်မူသွားကြပါသည်၊ ဤသို့ ဆောင်ရွက်တော်မူခြင်းသည် မိမိတို့ ကိုယ်ကျိုးအတွက် မပါ၊ အများအကျိုးအတွက်သာ ဖြစ်ပါသည်၊ ဤအချက်ကိုလည်း စိတ်ဝင်စား နေမိခဲ့ပါသည်။

**ဒုတိယသင်္ဂါယနာ** အရှင်မဟာကဿပ မထေရ်တို့ အနာဂတ်အတွက် စီစဉ်သွားခဲ့သော သာသနာတော်သည် နှစ်ပေါင်း (၁၀၀) ကြာသောအခါ ကျေးဇူးမဲ့ကို ပြုတတ်သော အလဇ္ဇီရဟန်းတို့၏ အပြုအမူကြောင့် အညစ်အကြေး ဖုံးလွှမ်း၍ ညှိုးနွမ်းရပြန်လေသည်၊ ထိုအခါ **အရှင်မဟာယသ**က...“ငါသည် ဘုရားရှင်၏သာသနာ ညှိုးနွမ်းနေသည်ကို သိလျက် ကြောင့်ကြမဲ့ နေခဲ့သော် ဝတ္တရားမကျေရာ ရောက်ပေမည်”

ဤသို့ ဆင်ခြင်လျက် နှောင့်ယှက်ဖျက်ဆီးသော အလဇ္ဇီတို့၏ ဘေးရန်က ကြီးမားလှသော ကြောင့် မိမိကဲ့သို့သော ရဟန္တာမထေရ်ကြီးများကို လိုက်လံ နှိုးဆော်စည်းရုံးခဲ့ရပါသည်၊ ဤသို့ စည်းရုံးပြီးမှ ဒုတိယသင်္ဂါယနာတင်ခြင်းဖြင့် သာသနာတော် သန့်ရှင်းအောင် ဆောင်ရွက်တော်မူခဲ့ ရပါသည်။

ဤအချိန်၌ အလဇ္ဇီတို့၏ အင်အားသည် ကြီးမားလှသဖြင့် အာဏာရှိသူ မင်းပင်လျှင် အလဇ္ဇီ၏ ဆွဲဆောင်မှုဖြင့် အသင်းဝင်ဖြစ်လျက် ရှိချေ၏၊ လဇ္ဇီသူတော်ကောင်း ရဟန္တာအရှင်မြတ်တို့၏ သီလ သမာဓိ ပညာဂုဏ် ကြီးမားမှုကြောင့် အာဏာရှိသူ မင်းလည်း အမြင်မှန်ရလေသည်။

လာမည့် အနာဂတ်ကာလတွင်လည်း သာသနာ့ဘေးရန်ကို မြော်မြင်ကြသဖြင့် ထိုဘေးရန်ကို ကာကွယ်စောင့်ရှောက်နိုင်ရန် ဗြဟ္မာ့ပြည်သို့ ကြွရောက် စီမံတော်မူခဲ့ကြပြန်ပါသည်။

ဤသို့ ဆောင်ရွက်တော်မူကြခြင်းသည် မိမိတို့ ကိုယ်ကျိုးအတွက် မပါ၊ အများအကျိုးအတွက် သာ ဖြစ်ပါသည်၊ ဤအချက်ကိုလည်း စိတ်ဝင်စားနေမိခဲ့ပါသည်။

**တတိယသင်္ဂါယနာ** သာသနာနှစ်ပေါင်း (၂၀၀) ကျော်လာသောအခါ မဇ္ဈိမဒေသ အိန္ဒိယပြည်တွင် **"ဘုရင်အသောက"** ဟူသော မင်းတစ်ပါး ထူးခြားစွာ ပေါ်ပေါက်လာပါသည်၊ ရိုးရာအတိုင်း "ဂိုဏ်းဘာသာဝင် နှစ်သောင်းခန့်တို့ကို ကိုးကွယ်ဆည်းကပ်ရင်း နေ့စဉ်နေ့တိုင်း ဆွမ်းကျွေးစေခဲ့၏၊ သို့သော် မိမိကိုးကွယ်ထားသော ပုဂ္ဂိုလ်တို့၏ ကြန္ထြေသိက္ခာကို မြင်ရာတွင် ကျေနပ်မှု မရရှိခဲ့ပါ။

တစ်နေ့တွင် နန်းရင်ပြင်အနီးက ဖြတ်သွားသော အသက် ၇-နှစ်အရွယ် **နိဂြောဓ**သာမဏေငယ်ကို ဘုရင်ကြီး မြင်လေသည်၊ မြင်လျှင် မြင်ချင်း အသွားအလာ အဝတ်အရုံ ကြန္ထြေသိက္ခာရှိပုံကို ကြည်ညိုလှသဖြင့် နန်းတော်ပေါ်သို့ ပင့်တော်မူခဲ့ပါသည်။

သာမဏေထံမှ အနည်းငယ်မျှသော တရားစကားနှင့် သာမဏေ၏ ဂုဏ်ကျေးဇူးများကို သိရပြီးလျှင် ဘုရင်ကြီးသည် သရဏဂုံမြဲသူ ဗုဒ္ဓဘာသဝက ဖြစ်လာရပါသည်၊ (အရိယာဖြစ်သွားသည်ကား မဟုတ်ပါ၊) သို့ရာတွင် ထိုအချိန်မှ စ၍ ရတနာသုံးပါး၌ မတုန်မလှုပ် သက်ဝင်ယုံကြည်လာပြီးလျှင် နောင်တွင် သက်ဆုံးတိုင်အောင် ငါးပါးသီလမြဲသူ ဥပါသကာ ဖြစ်၍သွားပါသည်၊ ကမ္ဘာ့ရာဇဝင်တွင်လည်း သမိုင်းတင် ဥဒါန်းထိုးလောက်အောင် ထင်ရှားသော ဗုဒ္ဓဘာသာဝင် ဘုရင်တစ်ပါး ဖြစ်၍သွားပါသည်။

ထို အသောကဘုရင်ကြီးလက်ထက်မှာပင် သာသနာအတွင်းသို့ တိတ္ထိများ ဝင်လာကြ၍ မိမိတို့အယူဝါဒများကို သာသနာတွင်းသို့ သွင်းလာကြသဖြင့် ရှုပ်ထွေးခဲ့ပါသည်၊ အလဇ္ဇီများ လွှမ်းမိုး၍ လဇ္ဇီသူတော်စင်များ နွမ်းနယ်ခဲ့ကြရပါသည်။

ထိုအခါ ယင်းအဓိကရုဏ်းကို ငြိမ်းရန်အတွက် **အရှင်မဟာမောဂ္ဂလိပုတ္တတိဿ**မထေရ်မြတ်အား အသောကမင်းကြီးက ပင့်၍ ရောက်ရှိလာပါသည်၊ ဘုရင်ကြီးက မိမိ ကိုးကွယ်အားထားရမည့် ဆရာ၏ အစွမ်းကို သိမြင်လိုသဖြင့် မထေရ်မြတ်ကြီးအား တန်ခိုးပြပါရန် တောင်းပန်ရာ တန်ခိုးပြတော်မူခဲ့ရပါသည်၊ ထို့နောက် သာသနာတော်အတွက် အသိအမြင် မှန်ကန်ဖို့ရန်လည်း ညွှန်ကြားသွန်သင်ပြသ၍ ဝိနည်းတော်တို့ကိုလည်း သင်ပေးတော်မူပါသည်၊ ထိုမထေရ်မြတ်ကြီးကား ဒုတိယသင်္ဂါယနာတင် ရဟန္တာအရှင်မြတ်တို့၏ မြော်မြင်စီမံချက်ဖြင့် သာသနာတော်ကို စောင့်ရှောက်ရန် ဗြဟ္မာ့ပြည်မှ လူ့ပြည်သို့ ဆင်းသက် ကြွရောက်လာသော ပုဂ္ဂိုလ်မြတ်ကြီး ဖြစ်ပါသည်။

ဤသို့လျှင် ဆရာနှင့်ဒကာ တစ်ဦးကို တစ်ဦး ယုံကြည်လာသောအခါ သာသနာတော်သန့်ရှင်းရေးအတွက် ဆရာ ဒကာ လက်တွဲ၍ **သာသနာနှစ် ၂၃၅-ခုနှစ်**တွင် တတိယသင်္ဂါယနာ တင်ခဲ့ကြပါသည်၊ ထိုပွဲတွင် ဝါဒအမျိုးမျိုးကို ဖြေရှင်းနှိမ်နင်းပေးနိုင်သော **"ကထာဝတ္ထုပါဠိတော်"** ကို အရှင်မဟာမောဂ္ဂလိပုတ္တတိဿက ဟောပြတော်မူပါသည်။

သာသနာ့ဒါယကာ ဘုရင်အသောကမှာလည်း ကမ္ဘာတွင် စံတင်လောက်သော ပုဂ္ဂိုလ်, ကမ္ဘာ့သမိုင်း သာသနာ့သမိုင်းတွင် ဥဒါန်းထိုးခဲ့ရသော ပုဂ္ဂိုလ်အဖြစ် ကျန်ရစ်ခဲ့ပါသည်၊ ယခုတိုင်အောင်ပင် ထိုဘုရင်ကြီး၏ ဆောင်ရွက်ချက်များကို အဆောက်အအုံများ, စာပေများက သက်သေခံလျက်ပင် ရှိပါသေးသည်။

**ကိုးတိုင်းကိုးဌာနသို့ စေလွှတ်**

ဆရာ-ဒကာ ဆောင်ရွက်ချက်တို့မှာ ဤမျှသာမက မဇ္ဈိမဒေသ အိန္ဒိယတွင် အနာဂတ်ကာလ၌ သာသနာ့ဘေးရန်ကို အနာဂတံသဉာဏ်တော်ဖြင့် မြင်မြော်တော်မူထားကြသည့်အလျောက် "မဇ္ဈိမဒေသ အပြင်ဘက်တွင် သာသနာတော် ပြန့်နေအောင် ယခုကပင် ကြိုတင်ဖြန့်ထားမှသာ သင့်တော်ပေမည်"... ဤသို့ တိုင်ပင်တော်မူကြပြီးလျှင် မဇ္ဈိမဒေသမှအပ ကိုးတိုင်း ကိုးဌာနသို့ သာသနာပြုပုဂ္ဂိုလ်များ စေလွှတ်တော်မူကြပြန်ပါသေးသည်၊ ထိုစဉ်က ဆောင်ရွက်ချက်အရ သီရိလင်္ကာ(သီဟိုဠ်ကျွန်း)သို့ရောက်သော သာသနာတော်သည်လည်းကောင်း, (သုဝဏ္ဏဘူမိ) သထုံပြည်သို့ ရောက်သော သာသနာတော်သည် လည်းကောင်း ယခုတိုင်အောင် ခိုင်မာစွာ ရပ်တည်လျက် ရှိပါသည်၊ ဤသို့လျှင် ကိုယ်ကျိုးမဖက် အများအကျိုးအတွက် ဆောင်ရွက်တော်မူကြသော သာသနာပြုအရှင်မြတ်တို့၏ စိတ်ဓာတ်ကိုလည်း အထူးစိတ်ဝင်စားနေမိပါသည်။

**ဟိမဝန္တာအတွင်းမှ စည်းဝေးပွဲကြီး**

ကိုးတိုင်းကိုးဌာနသို့ တစ်ဌာနလျှင် ငါးပါးစီပါဝင်စေလျက် လွှတ်လိုက်သော သာသနာပြု အရှင်မြတ်တို့သည် မိမိတို့ တာဝန်ကျရာ အရပ်ဒေသ၌ ဌာနအားလျော်စွာ အချို့မှာ သီလ သမာဓိ ပညာတို့ဖြင့် ညွှန်ပြ၍ ရိုးရိုးပင် သာသနာပြုတော်မူကြ၏၊ အချို့မူကား တန်ခိုးပြ၍ပင် သာသနာပြုတော်မူကြပါသည်။

ဤတန်ခိုးပြမှုကိစ္စနှင့် စပ်၍ ကြားညှပ် တင်ပြလိုပါသေးသည်၊ တတိယသင်္ဂါယနာတင်ပွဲနှင့် မဝေးကွာလှသော တစ်နေ့သောအခါတွင် ဟိမဝန္တာ တစ်နေရာ၌ နတ်သဘင်အစည်းအဝေးကြီး ကျင်းပခဲ့ကြပါသည်၊ ထိုအစည်းအဝေးကြီးတွင် သာသနာတော်ကို ကြည်ညိုသော နတ်မင်းကြီးများ ကြွရောက်လာကြပါသည်၊ ထိုပွဲကြီးသို့ အရှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ်ကြီးကိုလည်း ဩဝါဒပေးပါရန် ပင့်ဖိတ်ထားကြသည်ဟု ဆိုပါသည်၊ အရှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ်ကြီးက ဩဝါဒပေးရာတွင် "အသင်တို့သည် သာသနာတော်ထွန်းကားရာ, သံဃာတော်များရှိရာ အရပ်တို့၌ တန်ခိုးပြ၍ သာသနာမပြုကြနှင့်၊ သာသနာတော် မထွန်းကားရာ အရပ်ဒေသတို့၌မူ မိမိတို့ ဆန္ဒရှိသလို တရားနှင့်အညီ နှစ်သက်သလို ဆောင်ရွက်ကြပါ"ဟု မိန့်မြွက်တော်မူကြောင်း သိရှိရပါသည်။

သာသနာတော်ထွန်းကားရာ, ကိုယ်ကျင့်သီလ အဓိကဖြင့် နေထိုင်ကြသော သံဃာတော်များရှိရာ အရပ်တို့၌ တန်ခိုးပြပါက လူတို့သည် တန်ခိုးဣဒ္ဓိပါဒ်ကို နှစ်သက်မြတ်နိုးတတ်ကြ၏၊ သီလ သမာဓိ ပညာဖြင့် ရိုးရိုးနေထိုင်ကြသော သံဃာတော်များ အပေါ်မှာပင် အထင်သေးလာနိုင်ဖွယ် ရှိသည်၊ ထို့ပြင်လည်း အနာဂတ်ကာလ၌ ကိုယ်ကျင့်သီလ ဝိနည်း ကျင့်ဝတ်များကို အဓိကထား၍ လေးစားနေထိုင်ကြသော လဇ္ဇီသူတော်ကောင်း ပုထုဇဉ်ရဟန်းတော်အပေါင်းတို့ အပေါ်၌လည်း ထို့အတူပင် အထင်သေး အမြင်သေး ဖြစ်လာနိုင်ဖွယ် ရှိသောကြောင့် တားမြစ်ခြင်း ဖြစ်သည်ဟု ဆိုပါသည်၊ ဤအကြောင်းအရာများမှာ ပိဋကတ်စာပေတို့၌ ခိုင်ခိုင်မာမာ အမှတ်အသား မတွေ့ရပါသော်လည်း ယုံကြည်ရသော ဆရာသမားများက မိန့်မြွက်ခြင်း, ကေဝဋ္ဋသုတ်၌ "တန်ခိုးအဘိညာဉ်ထက် ကိုယ်ကျင့်သီလကိုသာ အဓိကထား၍ ကျင့်သုံးရမည်"ဟု ဟောတော်မူသော ဘုရားရှင်၏ ဒေသနာတော်နှင့် ညီညွတ်ခြင်းတို့ကြောင့် လေးစားစွာ မှတ်သားထိုက်သော အချက်ဟု ယူဆပါသည်၊ ဤနေရာတွင် **ကေဝဋ္ဋသုတ်**မှ ဘုရားရှင်၏ ဩဝါဒကို ထုတ်ပြပါရစေ။

**သာသနာပြုရန် ပြရမည့်တန်ခိုး**

ဤနေရာတွင် ရဟန်းတော်များ သာသနာပြုရန် ... ပြသင့်သည့် တန်ခိုး အကြောင်းကို အနည်းငယ်မျှ ဖော်ပြလိုပါသည်၊ မြတ်ဗုဒ္ဓ ရှင်တော်ဘုရား နာဠန္ဒမြို့ ပါဝါရိက သရက်တောကျောင်းမှာ သီတင်းသုံး နေတော်မူစဉ် **ကေဝဋ္ဋ**အမည်ရှိ ဒါယကာတစ်ဦးလာ၍ "အရှင်ဘုရား...ဤနာဠန္ဒမြို့သည် အလွန်စည်ကား လူနေများပါသည်၊ အရှင်ဘုရားကိုလည်း ကြည်ညိုကြပါသည်၊ အကယ်၍ ရဟန်း တစ်ပါးပါးကို မိုးပျံ မြေလျှိုး တန်ခိုးအမျိုးမျိုးကို ပြစေလျှင် အရှင်ဘုရားနှင့် တရား, သံဃာ သာသနာကို ပို၍ ကြည်ညို ကြပါလိမ့်မည်"ဟူ၍ လျှောက်ထားသည်၊ ထိုအခါ မြတ်စွာဘုရားက "ဒါယကာ ... ငါဘုရား သာသနာ၌ **ပါဋိဟာရိယ**ခေါ် တန်ခိုးသုံးမျိုး ရှိသည်။

၁။ **ဣဒ္ဓိပါဋိဟာရိယ**-မိုးပျံ မြေလျှိုး စသည့်တန်ခိုး၊

၂။ **အာဒေသနာပါဋိဟာရိယ**-လူတို့ စိတ်အကြံကို သိနိုင်သည့်တန်ခိုး၊

၃။ **အနုသာသနီပါဋိဟာရိယ**-မြတ်စွာဘုရား ဆုံးမဟောကြားသည့် လိုက်နာကျင့်သုံးဖွယ် တရားတော်ဟူသော တန်ခိုးတို့ ဖြစ်ကြသည်။

ယင်းသုံးမျိုးတို့တွင်...

၁။ **ဣဒ္ဓိပါဋိဟာရိယတန်ခိုးသည်** သာသနာကို မကြည်ညိုသူများက လောကီဂန္ဓာရီခေါ် မှော်အတတ်ဖြစ်သည်ဟု ထင်မှား စွပ်စွဲ ပြောကြားဖွယ် ရှိသည်။

၂။ **အာဒေသနာပါဋိဟာရိယတန်ခိုးသည်** သာသနာကို မကြည်ညိုသူများက လောကီ စိန္တာမဏိ စိတ်ပညာသာ ဖြစ်သည်ဟု ထင်မှား စွပ်စွဲ ပြောကြားဖွယ် ရှိသည်။

ထို့ကြောင့် ငါသည် ထိုတန်ခိုး နှစ်မျိုးကို ငြီးငွေ့ စက်ဆုပ် ရွံရှာလှပေသည်။

၃။ **အနုသာသနီပါဋိဟာရိယ**-မြတ်စွာဘုရား ဆုံးမဟောကြားသည့် လိုက်နာကျင့်သုံးဖွယ်ရာ တရားတော်ဟူသော တန်ခိုးသည်သာလျှင် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားစေနိုင်သည့် တန်ခိုး ဖြစ်ပေသည်ဟူ၍ ၁-ဣဒ္ဓိပါဋိဟာရိယနှင့် ၂-အာဒေသနာပါဋိဟာရိယတို့ကို ကဲ့ရဲ့ရှုတ်ချ၍ ၃-အနုသာသနီပါဋိဟာရိယကိုသာ ချီးမွမ်းကာ ဖြေဆို ဟောကြားတော်မူပါသည်။ **သီလက္ခန္ဓဝဂ္ဂပါဠိတော် ကေဝဋ္ဋသုတ် (နှာ-၂၀၅)**

ထိုအမြော်အမြင် ဟုတ်-မဟုတ်မှာ ယခုအခါ (ယနေ့ခေတ်တွင်) ဗေဒင် ယတြာ ဓာတ်ဆင် ဓာတ်ရိုက် အင်းအိုင် ခါးလှည့် လက်ဖွဲ့ မန္တန် ဂန္ဓာရီအတတ်တို့ဖြင့် လူများအံ့ဖွယ်သရဲဖြစ်အောင် ပြုလုပ်ပြ၍ ထင်သလိုနေကြသော ရဟန်းအချို့နှင့် လဇ္ဇီပေသလ သိက္ခာကာမ ဝိနယကျင့်ဝတ်နှင့် အညီ နေထိုင်ကာ စာပေပရိယတ်ကို ပို့ချသင်ကြားနေကြသော ရဟန်းများ၏ အခြေအနေကို သိနိုင်ပါသည်။

**စတုတ္ထသင်္ဂါယနာ**

အရှင်မဟာမောဂ္ဂလိပုတ္တတိဿ မထေရ်မြတ်ကြီးနှင့် အသောကမင်းကြီး တို့၏ သာသနာပြုစီမံကိန်းအရ ဘုရင်ကြီး၏သားတော်ရင်း ရဟန္တာ မဟာ မဟိန္ဒနှင့် သမီးတော်ရင်း ရဟန္တာ သင်္ဃမိတ္တာထေရီတို့သည် သီရိလင်္ကာ (သီဟိုဠ်ကျွန်း)သို့ ရောက်၍ သာသနာပြုတော်မူခဲ့ကြပါသည်၊ တစ်နေ့တစ်နေ့ တစ်ရွေ့ရွေ့ဖြင့် သာသနာတော်ကြီးလည်း

အလွန်ကျယ်ပြန့်စွာ ထွန်းကားခဲ့ပါသည်၊ အတောက်ပြောင်ဆုံးဌာန, အထွန်းကားဆုံးဌာန ဟုပင် ဆိုရပါချေမည်၊ ဤသို့ဖြင့် သီရိလင်္ကာ(သီဟိုဠ်)မှာ သာသနာသက်နှစ်ပေါင်း ၂၀၀-ကျော်လာသော အခါ ပြာဟ္မဏတိဿသူပုန်ဘေးကြီးကြောင့် တိုင်းသူပြည်သားတို့သည် ၁၂-နှစ်ပတ်လုံး ဒုဗ္ဘိက္ခန္တရ ကပ်ကြီး ဆိုက်ရောက်ကြရ၏၊ ရဟန်းသံဃာတို့လည်း ထောက်ပံ့မှု မရကြသဖြင့် အလွန်ဆင်းရဲကြ ကုန်၏၊ အချို့ရဟန်းတို့မှာ ဆွမ်းအာဟာရ လုံလောက်အောင်မရကြသဖြင့် ဝမ်းဗိုက်ပေါ် သဲကိုပုံကာ ဆာလောင်သော အပူမီးကို သည်းခံလျက် ပိဋကတ်တော်တို့ကို မမေ့အောင် ရွတ်အံနေကြပါသည်။

သူပုန်ဘေးကြီး ငြိမ်းသောအခါ ရဟန္တာ, ပုထုဇဉ် သီလဝန်အရှင်မြတ်တို့ စုပေါင်း၍ တိုင်ပင် တော်မူခဲ့ကြသည်၊ "ကြုံခဲ့သော သူပုန်ဘေးကြီးမျိုး နောင်တစ်ချိန်တွင် ဖြစ်ပေါ် လာဦးမည် ဆိုပါက ပိဋကတ်တော်တွေ အစအနမကျန် ပျောက်ကွယ် ကုန်ဆုံးဖို့ ရှိတော့သည်၊ အနာဂတ်ကာလတွင် နှုတ်တက်ဆောင်နိုင်ဖို့ ဉာဏ်အား နည်းပါးလာကြချေပြီ၊ သို့ဖြစ်၍ ယခုက ကြိုတင်ပြီး ပေထက် အက္ခရာတင်ထားမှ သင့်ချေတော့မည်" ဤသို့ တိုင်ပင်တော်မူကြပြီးနောက် **ဝဋ္ဋဂါမဏိ**မင်းကြီး၏ အကူအညီကို ယူကာ ဆရာ-ဒကာ နှစ်ဖြာလက်တွဲ၍ စတုတ္ထသင်္ဂါယနာတင်တော်မူခဲ့ကြပါသည်၊ အချိန်ကား သာသနာနှစ် ၄၅၀ က ဖြစ်ပါသည်၊ ဤတွင်လည်း ရဟန္တာ ပုထုဇဉ် အရှင်မြတ်တို့သည် ကိုယ်ကျိုးအတွက် မပါ, အများအကျိုးအတွက်သာ မြော်မြင်၍ ဆောင်ရွက်ခဲ့ကြခြင်း ဖြစ်ပါသည်၊ ဤအချက်ကိုလည်း စိတ်ဝင်စားနေမိခဲ့ပါသည်။

**အရှင်မဟာဗုဒ္ဓဃောသ**

သာသနာနှစ် ၉၅၀ - ခန့်တွင် သီရိလင်္ကာ (သီဟိုဠ်ကျွန်း)၌ ပေထက် အက္ခရာတင် စတုတ္ထသင်္ဂါယနာ၏ အရှိန်ဖြင့် သာသနာတော် အခြေ အနေ မနိမ့်ကျသေးပါ၊ သို့ရာတွင် အခြေခံပင်မ မဇ္ဈိမဒေသအိန္ဒိယ၌ကား ဂိုဏ်းအမျိုးမျိုး ကွဲပြား၍ ဘေးရန်အမျိုးမျိုးတွေ့ကာ ထေရဝါဒပိဋကတ်တော်များ မရှိသလောက် ကွယ်ပျောက်ကုန်ပါတော့ သည်၊ ထိုအခါ ရဟန္တာမထေရ်မြတ်ကြီးတို့၏ အစီအမံ ညွှန်ကြားမှုဖြင့် **အရှင်မဟာဗုဒ္ဓဃောသ**ကို သီရိလင်္ကာ(သီဟိုဠ်ကျွန်း)သို့ သွားစေ၍ ပေထက်တင်ထားသော ပိဋကတ်တော်တို့ကို မာဂဓဘာသာ ဖြင့် ကူးယူစေခဲ့ပါသည်၊ အဋ္ဌကထာတို့ကိုလည်း သီဟိုဠ်ဘာသာမှ မာဂဓဘာသာ ပြန်ဆို ရေးသားစေ ခဲ့ပါသည်။

ယခုအခါ မြန်မာပြည်၌ သုံးစွဲနေသော ပိဋကတ်တော် ပါဠိတော် အဋ္ဌကထာများသည် သီရိလင်္ကာ(သီဟိုဠ်)မှ အရှင်မဟာဗုဒ္ဓဃောသ ဆောင်ယူခဲ့သော ပိဋကတ်များပင် ဖြစ်ပေ၏၊ ရဟန္တာ မထေရ်ကြီးများနှင့် အရှင်မဟာဗုဒ္ဓဃောသသည် ကိုယ်ကျိုးအတွက် မဟုတ်ဘဲ အများအကျိုး အတွက် ဆောင်ရွက်တော်မူခဲ့ခြင်း ဖြစ်ပါသည်၊ ဤအချက်ကိုလည်း စိတ်ဝင်စားနေမိခဲ့ပါသည်။

**မြန်မာပြည်၌ ထေရဝါဒသာသနာအစ**

တတိယသင်္ဂါယနာအပြီး ကိုးတိုင်း ကိုးဌာနသို့ သာသနာပြု စေလွှတ် စဉ်ကပင် မြန်မာပြည်အောက်ပိုင်း သထုံဟု ခေါ်သော (သုဝဏ္ဏဘူမိ) အရပ်သည်လည်း ဌာနတစ်ခုအဖြစ် ပါဝင်ခဲ့ပါသည်၊ ဤကဲ့သို့ ရဟန္တာ အရှင်မြတ်တို့၏ သာသနာပြုရာဌာနဟု သတ်မှတ်မှုခံရခြင်းသည် မြန်မာပြည်နှင့်တကွ အရှေ့တောင် အာရှ တစ်ခုလုံးအတွက် ကြီးမားသောလာဘ်, ကြီးမားသော ကံကောင်းခြင်းဟု ဆိုရပါမည်။

**အရှင်သောဏနှင့်အရှင်ဥတ္တရ**တို့ ခေါင်းဆောင်သော သာသနာပြု အရှင်မြတ်ငါးပါးတို့သည်လည်း (သုဝဏ္ဏဘူမိ) သထုံပြည်၌ သာသနာတော်အခြေချ၍ ဟောပြောပြသ ဆုံးမလာခဲ့ရာ ထူးခြားစွာ အောင်မြင်မှုများ ရကြပါသည်၊ ထိုအချိန်မှ စ၍ နောင်တွင် စာပေနှင့်တကွ အသိပညာ, လူမှုရေး, နိုင်ငံရေး, ယဉ်ကျေးမှု, အနုပညာ, အတတ်ပညာတို့ပါ စုံလင်စွာ ကျယ်ကျယ်ပြန့်ပြန့် မြင့်မြင့်မားမား တိုးတက်၍ လာခဲ့ရာမှ သာသနာနှစ် ၁၆၀၀-ခန့်သို့ တိုင်အောင်ပင် ရောက်လာခဲ့ပါသည်၊ သထုံပြည်နှင့်တကွ ပတ်ဝန်းကျင်ဒေသတို့ပါ သာသနာရောင်လွှမ်းအောင် ကြိုးပမ်းတော်မူကြသော အရှင်မြတ်တို့မှာ ကိုယ်ကျိုးမပါ၊ သူတစ်ပါးအကျိုးသက်သက်သာ ဖြစ်ကြပါသည်၊ ဤ အချက်တို့ကိုလည်း စိတ်ဝင်စားနေမိခဲ့ပါသည်။

**ပုဂံသာသနာ**

(သုဝဏ္ဏဘူမိ) သထုံပြည်၌ သာသနာတော် မြင့်မားစွာ တည်ရှိနေရာမှ တစ်စတစ်စ ညှိုးနွမ်းလာခဲ့ပါသည်၊ မြန်မာပြည်အထက်ပိုင်း ပုဂံတွင်လည်း အရည်းကြီးရဟန်းများ စိုးမိုးနေချိန်ဖြစ်ပါသည်၊ ထိုအခြေအနေ အရပ်ရပ်ကို သိတော်မူကြသဖြင့် **အရှင်သီလဗုဒ္ဓိ** စသော (အရှင်အရဟံ၏ ဆရာ) ရဟန္တာမထေရ်မြတ်ကြီးတို့သည် အနာဂတံသဉာဏ်တော်ဖြင့် မြင်တော်မူကြ၍ **အရှင်အရဟံ**ကို နောက်ပါ ရဟန်းလေးပါးနှင့်အတူ ပုဂံသို့ သာသနာပြုစေလွှတ်တော်မူခဲ့ကြပါသည်။

ထိုအချိန်က အရှင်အရဟံသည် သိက္ခာတော်အားဖြင့် ငယ်သေးသော်လည်း အစွမ်းသတ္တိပြည့်စုံသူ ပါရမီရှင်ပုဂ္ဂိုလ်ထူးတစ်ပါး ဖြစ်ပါသည်၊ အနော်ရထာဘုရင်ကလည်း သက်တော် ၄၀ ပတ်ဝန်းကျင်ဖြစ်ပြီး ထက်မြက်သူတစ်ဦး ဖြစ်ပါသည်၊ ထူးခြားသော ပြောင်းလဲမှုကြီးကို ပြုလုပ်ရန် ပါရမီရှင်များ ဆုံဆည်းချိန် ဖြစ်၍ သာသနာပြုရန် ကောင်းသော အချိန် ဖြစ်နေသည်ကို သာသနာစောင့် ရဟန္တာ မထေရ်မြတ်ကြီးများ သိတော်မူနှင့်၍ ဖြစ်ပါသည်။

အရှင်အရဟံ ပုဂံသို့ ရောက်ပြီးနောက် သာသနာ ၁၆၀၁-ခုနှစ် မြန်မာသက္ကရာဇ် ၄၁၉-ခုနှစ် သထုံမှ ပိဋကတ်အစုံ (၃၀)နှင့် ဓာတ်တော်များ, သီလဝန္တရဟန်းများစွာတို့ကိုပါ ပင့်ဆောင်တော်မူခဲ့ကြပါသည်။

ထို့နောက် အရှင်အရဟံ၏ ညွှန်ကြားမှုဖြင့် အနော်ရထာမင်းသည် သီဟိုဠ်ဘုရင်မင်းမြတ်ထံမှ ပိဋကတ်တော်တစ်စုံ ရနိုင်ရန် လက်ဆောင်ပဏ္ဏာများနှင့် စေလွှတ် အလှူခံစေတော်မူပါသည်၊ အမိန့်အတိုင်း စီစဉ်ရာ မကြာမီ သီဟိုဠ်မှ ပိဋကတ်တော်တစ်စုံ ရလာပါသည်၊ ထိုအခါ သထုံပိဋကတ်တော်များနှင့် သီဟိုဠ်ပိဋကတ်တော်တို့ကို တိုက်ဆိုင် တည်းဖြတ်ပြီးမှ ပုဂံတွင် ပရိယတ္တိသာသနာကို စတင် တည်ထောင်တော်မူခဲ့ပါသည်။

ထို့ပြင်လည်း ရှင်ဘုရင်က မင်းမိန့်ဖြင့် အရည်းကြီးရဟန်းတို့ကို ဖယ်ရှား၍ အရှင်အရဟံယူလာခဲ့သော စစ်မှန်သော ထေရဝါဒသာသနာကို အစားသွင်းလိုက်ပါတော့သည်၊ သန့်စင်သော ထေရဝါဒသာသနာ တည်တံ့ခဲ့ပေပြီ၊ ထူးခြားသော ပြောင်းလဲမှုကြီးပင်တည်း။

အနော်ရထာမင်းလက်ထက်တွင် ပြုပြင်ပြောင်းလဲခဲ့သော အခြေအနေကို ကျန်စစ်မင်းကြီးလက်ထက်တွင်လည်း ဆက်လက်ထိန်းသိမ်းပံ့ပိုး၍ အရှိန်တိုးမြှင့်ထားတော်မူခဲ့ပါသည်၊ ထို့ကြောင့် ပုဂံ၌ အရှင်အရဟံ, အနော်ရထာ, ကျန်စစ် ဤသုံးဦးသားတို့ ကြိုးစားခဲ့သော သာသနာတော်သည်



ရွှေစည်းခုံစေတီတော်



သထုံကေလာသတောင်ခြေရှိ
ကျိုက်တဲမဟာခေတ်စေတီတော်

အဟုန်ကောင်းစွာ တိုးတက်လာခဲ့ပါသည်၊ ယနေ့တိုင်အောင် ဖူးတွေ့နေရသော သာသနာတော်သည် ယင်း သာသနာပင် ဖြစ်ပါသည်။

ထို့ကြောင့် မြန်မာနိုင်ငံ ပုဂံသာသနာတော်သမိုင်းအစတွင် ရွှေစည်းခုံစေတီတော်ကြီးကို အရှင်အရဟံနှင့် အနော်ရထာဘုရင်တို့ တည်ခဲ့ကြရာ၊ အနော်ရထာဘုရင် နတ်ရွာစံသောအခါ အပြီးမသတ်နိုင်ဘဲ ကျန်ရစ်ခဲ့ပါသည်၊ ကျန်စစ်မင်း နန်းတက်လာသောအခါ၌ အရှင်အရဟံ၏ သတိပေး ညွှန်ကြားမှုကြောင့်ပင် ရွှေစည်းခုံစေတီတော်မြတ်ကြီးအား အပြီးသတ်တော်မူစေခဲ့ခြင်းဖြင့် အရှင်အရဟံ, အနော်ရထာ, ကျန်စစ်မင်းကြီးတို့ ဆရာ ဒကာ သုံးဦးသားတို့၏ သာသနာ့အုတ်မြစ်သည် ယနေ့တိုင်အောင် ခိုင်မြဲနေပါသည်၊ သထုံနယ် ကေလာသတောင်ခြေရှိ ကျိုက်တဲမဟာခေတ် စေတီတော်ကိုလည်း ကျန်စစ်မင်းကြီး နန်းစံ(၁၃)နှစ်တွင် ကျောက်သားများဖြင့် ပြန်လည်မွမ်းမံတော်မူပါသည်၊ ဤသုံးဦးကို နုတ်ထား (ဖယ်ထား)ပါက မြန်မာပြည်၌ ထေရဝါဒသာသနာပင် မရှိနိုင်တော့ပြီ၊ မြန်မာ ပြည်သူ ပြည်သားတို့၏ ဘဝသည်လည်း သူတော်ကောင်း ပညာရှိများ လေးစားလောက်စရာ ကျန်တော့မည် မဟုတ်ပါ၊ တွေးဝံ့စရာ မရှိအောင်ပင် ဖြစ်ရပါတော့မည်၊ ဤ ဆရာ ဒကာ သုံးဦးကား မြန်မာတို့၏ ကျေးဇူးရှင်ကြီးများပင်တည်း။

ဤသို့လျှင် အရှင်အရဟံ စသော ဆရာ ဒကာ ဤသုံးဦးတို့သည် မိမိအကျိုးအတွက် ငဲ့ကွက်မထား, အများအကျိုးငှာသာ ဆောင်ရွက်တော်မူသွားကြပါသည်၊ ဤအချက်ကိုလည်း စိတ်ဝင်စားနေမိခဲ့ပါသည်။

**ဟံသာဝတီသာသနာ** သက္ကရာဇ် ၈၁၄, **ရှင်စောပုသည် ဗညားကျန်းတော** အမည်ဖြင့် ဟံသာဝတီဘုရင်မဖြစ်လာသောအခါ မိမိအား ကျေးဇူးရှိခဲ့ဖူးသော **ဓမ္မဇေ** ရဟန်းအား လူဝတ်လဲ၍ **ဓမ္မစေတီ**ဟူသော အမည်ကို ခံယူစေတော်မူကာ အိမ်ရှေ့အရာ အပ်နှင်းလေသည်၊ သက္ကရာဇ် ၈၂၁-ခုနှစ်, ရှင်စောပု ဘုရင်မသည် ဓမ္မစေတီအား ထီးနန်းအပ်၍ ဒဂုံတွင် နေထိုင်ရင်း ၈၈၃-ခုနှစ်တွင် အနိစ္စရောက်သည်။

ထိုအချိန်မှ စ၍ ဓမ္မစေတီမင်းသည် **ရာမာဓိပတိ**ဟူသော ဘွဲ့ကို ခံယူ၍ **ဟံသာဝတီ**ပြည် အလုံးကို ဆက်ခံအုပ်စိုး၍ သာသနာတော်ကို စင်ကြယ်အောင် ပြုစုံတော်မူသည်၊ သာသနာတော်၏ အရင်းအမြစ်ဖြစ်သော **ကလျာဏီ**သိမ်တော်ကြီးကို ဖြစ်မြောက်အောင် ကြိုးစားအားထုတ်ပြီးလျှင် သာသနာတော် သန့်ရှင်း တည်တံ့ ပြန့်ပွားရေးအတွက် အောက်ပါ အမိန့်တို့ကိုလည်း ထုတ်ပြန် ကြေညာ၍ စင်ကြယ်သော ရဟန်းများဖြစ်အောင် ကြိုးစားတော်မူသည်။

"အကြင် အမျိုးသားတို့သည် ရှင်သာမဏေ ပြုလိုပါသည်ဟူ၍ လာရောက် ခွင့်တောင်းလျှင် အက္ခရာအရေးအသားတို့ကို သင်စေ၍ အရွတ်အဖတ် ပီသအောင် သင်အံလေ့ကျက်စေပြီးလျှင် သရဏဂုံတို့ကို သင်ကြားခြင်း, သာမဏေတို့ သိထိုက်သော သိက္ခာပုဒ်များကို သိအောင် သင်ပြီး မှသာ သာမဏေ ပြုတော်မူပါကုန်၊ အသက်ပြည့်ပြီးသော သာမဏေတို့သည် ပဉ္စင်းခံလိုသည် ဆိုလျှင် ရဟန်းတို့ ဖြည့်ရသော သီလလေးပါးကို အကုန်ကြား၍ ဘိက္ခုပါတိမောက်နှင့် ခုဒ္ဒသိက္ခာ ကျမ်းများကို အစမှ အဆုံးတိုင်အောင် သင်စေ၍ အာပတ် ဒေသနာကြားတို့ကို နှုတ်တက်ရအောင် သင်အံလေ့ကျက်စေပြီးမှ ကျွန်ုပ်အားလည်းကောင်း, ဟံသာဝတီဂိုဏ်းဆရာတို့အားလည်းကောင်း အကြောင်းကြားပါကုန်၊ ထိုအခါ အကျွန်ုပ်သည် ပရိက္ခရာ ရှစ်ပါးတို့ဖြင့် ထောက်ပံ့၍ ပဉ္စင်းခံစေ ပါမည်၊ အရှင်ဘုရားတို့မှာလည်း ဝိနည်း ပညတ်တော် သိက္ခာပုဒ်များအတိုင်း ကြိုးစားအားထုတ်၍ ကျင့်ဆောင်တော်မူပါကုန်"ဟု လျှောက်ထားသည်။

ရွှေငွေခံသောရဟန်း, ဥစ္စာဆည်းပူးသောရဟန်း, ဆင်မြင်းကျွဲနွား, ကျွန်ယောက်ျား ကျွန်မိန်းမ ရှိသော ရဟန်းတို့အားလည်း တောင်းပန်သဖြင့် သဒ္ဓါတရားနှင့် ပြည်စုံစွာ ရွှေငွေအစရှိသော ပစ္စည်းတို့ကို စွန့်၍ သိက္ခာပုဒ်တော်အတိုင်း ကောင်းစွာ ကျင့်စေကြကုန်သည်။

အချို့သော ရဟန်းတို့လည်း မစွန့်နိုင်၍ လူထွက်ကြကုန်သည်၊ အထင်အရှား ပါရာဇိကသို့ ရောက်သော ရဟန်းတို့ကို မတောင်းပန်မူ၍ လူထွက်စေသည်၊ ပါရာဇိကသို့ ရောက်သောအဖြစ် သည် မထင်ရှား သူတစ်ပါးတို့ ကဲ့ရဲ့စွပ်စွဲခြင်းများကို သုတ်သင်နိုင်ခဲ့သော ရဟန်းတို့ကိုလည်း မတောင်းပန်မူ၍ လူထွက်စေသည်။

ဆေးကုသော ရဟန်း, ဟူးရားဂဏန်းတွက်သော ရဟန်း, ကာမစည်းစိမ်ကို ခံစားသောလူတို့ ကဲ့သို့ ပန်းချီအမှုဖြင့် အသက်မွေးကုန်သော ရဟန်း, ကုန်သွယ်ကုန်သော ရဟန်းတို့ကိုလည်း လူထွက်စေသည်။

ဤ ရာမာဓိပတိမင်း၏ သာသနာတော်ကို သုတ်သင်ရှင်းလင်းပြီးသည့်နောက်တွင် မဟာ ဝိဟာရဝါသီ အနွယ်အဆက် မကွဲမပြား တည်လေသည်။ ။

**ဘုရင့်နောင်မင်းကြီး** သက္ကရာဇ် ၉၀၀ ကျော်တွင် ဟံသာဝတီ၌ ဘုရင်နောင်မင်းကြီး အုပ်စိုးသောအခါ (က) ရတနာသုံးပါးနှင့်စပ်သော ပစ္စည်းများကို မသုံးဆောင်ရန် ပညတ်ခြင်း၊ (ခ) မှားယွင်းသောအယူများကို ပယ်ရှားရန် ပညတ်ခြင်းပင်ဖြစ်သည်၊ (က) အချက်ကို ဆောင်ရွက်လိုက်နာရန် ကျောက်စာ ထိုးမှတ်၍ ပညတ်ခဲ့သည်၊ ထိုကျောက်စာ ပုဂံ သဗ္ဗညုဘုရားတွင် ရှိသည်၊ သက္ကရာဇ် ၉၁၃-ခုနှစ်က ဖြစ်သည်၊ (ခ) အမှတ်ပါမှားယွင်းသော အယူတို့ကို ပယ်ရှားခြင်း၌ မိစ္ဆာဆံသော နတ်တင်သည့် အယူများကို မင်းမိန့်ဖြင့်ဖယ်ရှားစေသည်၊ အချို့ အကြီးအကဲ ပြုသူများကို သစ္စာရေ တိုက်၍ ဤအယူများကို ပြင်စေသည်၊ သီဟိုဠ်သို့ပင် ဗုဒ္ဓသာသနာတော်အတွက် အကူအညီများ စေလွှတ်တော်မူခဲ့သည်၊ ဤသည်ပင်လျှင်လည်း ဓမ္မစေတီမင်းနှင့် ဘုရင့်နောင်မင်းတို့သည် မိမိကိုယ်ကျိုးထက် အများကျေးဇူးအတွက်ဆောင်ရွက်တော်မူသွားကြခြင်းပင် ဖြစ်သည်။

**(မြန်မာမင်းအုပ်ချုပ်ပုံ စာတမ်းအတွဲ-၃)**

ထိုကဲ့သို့ အများအကျိုး လိုလားလျက် အယူမှား အကျင့်မှားတို့ကို ပြုပြင်ထိန်းသိမ်းစောင့်ရှောက်သွားကြသော ပုဂ္ဂိုလ်များ၏ အလုပ်တို့ကိုလည်း အထူးစိတ်ဝင်စားနေမိခဲ့ပါသည်။

**ကြံ့ကြံ့ခံခဲ့သော မထေရ်များလည်းရှိခဲ့** ဤမျှလောက် လမ်းမှန်ဘက်သို့ ရောက်အောင် ပြောင်းလွဲရေးကြိုးလုပ်သူတို့က လုပ်ကိုင်သည့်တိုင် ဖျက်ဆီးဖြိုခွင်းသူတို့လည်း ပေါ်ပေါက်ခဲ့ကြ၏၊ ပုဂံခေတ်မှာပင် **နရသူ(ကုလားကျ)မင်း**ကဲ့သို့ ကျေးဇူးမဲ့ကို ပြုတတ်သောပုဂ္ဂိုလ်မျိုးလည်း ပေါ်ပေါက်လာခဲ့ပါသည်။

နရသူမင်းကား ရဟန်းသံဃာတော်များ လူထွက်ချင်အောင် အမျိုးသမီးများအား အင်္ကျီပါးပါးဝတ်စေခြင်း, ဟက္ကဲလုံချည် ဝတ်စေခြင်း စသည်တို့ကို ဖန်တီးပေးထား၏၊ အခြားနည်းတို့ဖြင့်လည်းပျက်စီးအောင် ဆောင်ရွက်ခဲ့သည်၊ သို့သော် လဇ္ဇီသူမွန် သီလဝန်တို့ကား မယိမ်းမယိုင် ကြံ့ကြံ့ခံနိုင်ခဲ့ပေသည်။

အင်းဝခေတ် **သိုဟန်ဘွားဘုရင်** အာဏာရှင်လက်ထက်တွင်လည်း ဘုရား ပုထိုးများကို ရိုက်ချိုးဖျက်ဆီးခြင်း, စာပေကျမ်းဂန်များကို မီးရှို့ခြင်း, စာတတ်ပေတော် ရဟန်းတို့ကို သတ်ဖြတ်ခြင်းစသည်ဖြင့် နှိမ်နင်းမှုကို ခံခဲ့ကြရ၏၊ ထိုအခါ ရဟန်းသံဃာတော်များသည် ကြုံသလို ရပ်နားကြရသဖြင့် သိက္ခာပုဒ်များ ပျက်ပြားကြရပါသည်၊ သို့သော်လည်း လဇ္ဇီသူမွန် သီလဝန်အရှင်မြတ်တို့ကား "အသက်ကိုပင် စွန့်ရပစေ, သိက္ခာပုဒ်ကို မစွန့်"ဟူသော သဒ္ဓါတရားဖြင့် ကြံ့ကြံ့ခံတော်မူနိုင်ခဲ့ကြပေသည်။

ဤအကြောင်းအရာနှင့် စပ်၍ သာသနာနှစ် ၂၃၅၆-ခုနှစ် ကောဇာသက္ကရာဇ် ၁၁၇၄-ခုနှစ်ကုန်းဘောင်ပဌမဆက် ဘိုးတော်မင်းတရားလက်ထက် စလင်းမြို့အရှေ့မျက်နှာတွင် **မဟာသမန်းမျိုး** စလင်းမြို့သူကြီး ဆောက်လုပ် လှူဒါန်းအပ်သော ကျောင်းကြီး၌ သီတင်းသုံးသော သီလဝန်မထေရ်မြတ် ရေးသားအပ်သော ပရိတ်ကြီးနိဿယသစ် နိဂုံးကို ဖော်ပြလိုပါသည်။...

"သာသနာတော်အား ကျေးဇူးများရန် ဤ ပရိတ်ကြီးနိဿယသစ်ကို ရေးပါသည်၊ ရေးသော ကာလ၌ ကာလဝိပတ္တိဖြစ်၍ မိုးခေါင်သော ဒုဗ္ဘိက္ခကာလ, စစ်မက်အင်္ဂါများသောကာလ, မုဒိမ်းကဏ္ဍ ခိုးသူများသောကာလ, ကြေးဖိုး တောင်တင်း တိုသောကာလပေ"

သာသနာတော်လည်း ဘေးကြီးစွာ ရောက်၍ ဥပုသ်, ပဝါရဏာ မမှန် ချွတ်ယွင်းကြကုန်၏၊ တရားမစောင့်သော အလဇ္ဇီ ဒုဿီလရဟန်းတို့သာ များကုန်၏၊ ရွှေငွေဆည်းပူးသိုမှီးသော ရဟန်း တို့သာ များကုန်၏၊ ရူပိယသံဝေါဟာရ, ကယဝိက္ကယ, မိစ္ဆာဇီဝရဟန်းတို့သာ များကုန်၏၊ လှေ, လှည်း, နွားမွေးရဟန်းတို့သာ များကုန်၏၊ အဂ္ဂိရတ်ကို အားထုတ်သော ရဟန်းတို့သာ များကုန်၏၊ လဇ္ဇီပေသလ သိက္ခာကာမ သူတော်ကောင်း နည်းကုန်၏၊ ပရိယတ် ပဋိပတ်အားထုတ်သော ရဟန်းတို့ နည်းကုန်၏၊ မင်းစိုးရာဇာတို့က အဝတ်ဖြူလဲ၍ သာသနာတော်မှ နှင်ထုတ်ခံရသော ရဟန်းတို့သည်လည်း အများပင်၊ ဤနည်းဖြင့် အနှစ်(၂၀)ကျော်ပင် ကာလဝိပတ္တိ ဖြစ်လေသတည်း။

ထိုသို့ ကာလဝိပတ္တိအခါတွင် ဘေးရောက်သော ကာလ၌ပင်သော်လည်း ငါတို့ အနွယ်အဆက် လဇ္ဇီပေသလ သိက္ခာကာမ သူတော်ကောင်းတို့သည်ကား သာသနာတော်ကို စောင့်ရှောက် ထိန်းသိမ်း၍ နေပါကုန်သတည်း။

ဤသို့လျှင် သဒ္ဒါတရား မခိုင်သော ရဟန်းတို့က ပျက်ပြားခဲ့ရသော်လည်း လဇ္ဇီပေသလ သိက္ခာကာမ သီလဝန်ရဟန်းတို့ကား မပျက်ပြား ကြံ့ကြံ့ခံတော်မူနိုင်ကြပေသည်။

**ကိုယ်စီကိုယ်ငှ တစ်ဘဝသာသနာ**

အတ္တဆန်တတ်လွန်းလှသော လောကကြီးတွင် အတ္တအကျိုးကို ဖယ်ထား၍ ပရအကျိုးကို ဆောင်ရွက်လိုသော စိတ်ထားမှာ စိတ်ဝင်စားစရာ ကောင်း လှပါသည်၊ ပါရမီထူးချွန်သည့် သူမွန်သူမြတ်တို့သာ လက်ကိုင်ပြုနိုင်သော စိတ်ထားများပေတည်း။

ဗုဒ္ဓမြတ်စွာ ပရိနိဗ္ဗာန်ပြုပြီးနောက် တည်ထားခဲ့သော သာသနာတော်ကို အရှင်မဟာကဿပ အစရှိသော ပဌမသင်္ဂါယနာတင် ရဟန္တာအရှင်မြတ်များ, အရှင်မဟာယသ အစရှိသော ဒုတိယ သင်္ဂါယနာတင် ရဟန္တာအရှင်မြတ်များ, အရှင်မဟာမောဂ္ဂလိပုတ္တတိဿ အစရှိသော တတိယ သင်္ဂါယနာတင် ရဟန္တာအရှင်မြတ်များ, ပေထက်အက္ခရာတင် စတုတ္ထသင်္ဂါယနာတင် အရှင်မြတ် များမှ စ၍ ဤမှာဘက်တွင် ထူးခြား ပေါ်ပေါက်ခဲ့သော အရှင်မြတ်များတို့သည် ပရအကျိုးကို ဆောင်ရွက်သူများပင် ဖြစ်ပါသည်။

ကိုယ်ကျိုး မငဲ့ကွက်, အများအကျိုးအတွက် ဆောင်ရွက်ရင်းဖြင့် မိမိတို့ဆိုင်ရာ တစ်ဘဝ သာသနာကို ဆောင်ရွက်၍ သွားတော်မူခဲ့ကြပါသည်၊ ဤအချက်တို့ကိုလည်း စိတ်ဝင်စားနေမိခဲ့ရုံ သာမက သူတော်ကောင်း လဇ္ဇီသံဃာ အရှင်မြတ်တို့သည် ဗုဒ္ဓ၏ အဆုံးအမ နည်းလမ်းအတိုင်း မိမိအကျိုးကို ကျင့်ရုံသာမက မိမိအကျိုးထက် အများအကျိုး (ပရဟိတအကျိုး)ကို ရှေ့တန်းတင်၍ ကြိုးစားကြပုံ, သံဃာတော် အရှင်မြတ်တို့၏ ဂုဏ်ကို အာရုံပြု၍ ရှိခိုးမိပါသည်။ ။

# ယနေ့ပစ္စက္ခသာသနာ

ယနေ့ပစ္စက္ခသာသနာကို ပထမသင်္ဂါယနာ၊ ဒုတိယသင်္ဂါယနာ၊ တတိယသင်္ဂါယနာ သုံးကြိမ်တွင် ဖြစ်ပေါ်ခဲ့သော သာသနာ့အန္တရာယ်များနှင့် ချိန်ထိုး၍ ကြည့်သင့်ကြပါသည်။

ပထမသင်္ဂါယနာ တင်ရသည်မှာ "ဗုဒ္ဓရှင်တော် မရှိတော့"ဟု သာသနာတော်ကို မထီမဲ့မြင်ပြုတော့မည့်ရန်ကို ကာကွယ်ရခြင်း ဖြစ်၍၊ ဒုတိယသင်္ဂါယနာမှာ လူ့လောကသားတို့နှင့် မခြား "ရွှေငွေကို အပ်သည်" ဟု အလျှုခံ ကိုင်တွယ် သုံးစွဲမှု၊ မအပ်မရာ ကျင့်သုံးမှုကို ကာကွယ်ရခြင်း ဖြစ်ပါသည်၊ တတိယသင်္ဂါယနာမှာ ဗုဒ္ဓ၏တရား မဟုတ်ဘဲ ဗုဒ္ဓ၏တရားယောင်ယောင်ဖြင့် တိတ္ထိတရားတို့ကို ဗုဒ္ဓတရားတော်အတွင်းသို့ သွားလာခြင်း၊ ဝမ်းရေးကြောင့် အသွင်တူအောင် ဝတ်ဆင်သော တိတ္ထိများ ဝင်ရောက်လာကြသော အန္တရာယ်ကို ကာကွယ်ရန် ဖြစ်ပါသည်။

ယခုအခါ ကမ္ဘာပေါ်တွင် တတိယသင်္ဂါယနာတင်စဉ်က ဗုဒ္ဓသာသနာတော် ထွန်းကားခဲ့သော အာဖဂန်နစ္စတန်၊ ပါကစ္စတန်၊ အိန္ဒိယနိုင်ငံ၊ အင်ဒိုနီးရှားနိုင်ငံများတွင် ဗုဒ္ဓသာသနာအဆောက်အအုံကြီးများ ကြီးကျယ်ထင်ရှားစွာ ကမ္ဘာက သိလောက်အောင် ကျန်ရှိနေခဲ့သော်လည်း ဗုဒ္ဓဘာသာဝင် ဟူ၍ မရှိသလောက် ဖြစ်နေခဲ့ပါပြီ။

မြန်မာပြည် လွတ်လပ်ရေးရ၍ သာသနာ ၂၅၀၀ ပြည့် ဆဋ္ဌသင်္ဂါယနာတင်စဉ်က ထေရဝါဒ သာသနာတော် ထင်ရှားရှိ၍ သံဃာတော်များ ကြွရောက်လာခဲ့သော ထေရဝါဒနိုင်ငံ အချို့မှာလည်း ထေရဝါဒသာသနာ အားနည်း၍ လာခဲ့ကြပေပြီ၊ ဤဖြစ်ရပ်များသည် မြန်မာပြည်ရှိ ဗုဒ္ဓဘာသာဝင်များ အလွန် သံဝေဂယူစရာပင် ဖြစ်ပါသည်။

၁၉၈၀ ပြည့်နှစ် နိုင်ငံတော်အစိုးရက သာသနာတော်သန့်ရှင်းရေးကို ဆောင်ရွက်ခဲ့ရာ အလွန်ကျေးဇူးတင် ဝမ်းမြောက်ဖွယ် ဖြစ်၍ သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရန်အတွက် အလွန်ကျေးဇူးများခဲ့သော်လည်း ဆက်လက် ဆောင်ရွက်ရန် အများပင် ကျန်ရှိနေပါသေးသည်။

ဤသည်ကိုလည်း သံဃာ့ဝန်ဆောင် ဆရာတော်များနှင့် နိုင်ငံတော်အစိုးရက... ဓမ္မစက်၊ အာဏာစက် နှစ်ခုဖြင့် ဆောင်ရွက်နေကြသည်မှာ အရုဏ်လာ၍ နေထွက်ကို မျှော်သူကဲ့သို့ သာသနာတော်အတွက် သန့်ရှင်း တည်တံ့ ပြန့်ပွားလိုသူတို့မှာ မျှော်လျက် နေကြရပါသည်။

ထိုမှ နွယ်ဆက် မြန်မာပြည်အတွက်ကို ပြောရပါလျှင်... သာသနာတွင် အရာထင်အောင် ဆောင်ရွက်တော်မူခဲ့ကြသည့် ဆရာတော် ဦးဗုဓ်၊ ရေစကြိုဆရာတော်ဘုရားကြီး၊ ပခုက္ကူဆရာတော်များနှင့် ပထမရွှေကျင်ဆရာတော်ဘုရားကြီး၊ လယ်တီဆရာတော်ဘုရားကြီး စသော သိသောပုဂ္ဂိုလ်၊ မသိသောပုဂ္ဂိုလ်၊ လဇ္ဇီသူမွန် သီလဝန် ပုဂ္ဂိုလ်မြတ်တို့သည်လည်း ကိုယ်ကျိုးမဖက်၊ သူတစ်ပါး အကျိုးအတွက် ဆောင်ရွက်တော်မူသွားကြသူများပင် ဖြစ်ကြပါသည်။

ဤသို့ ကိုယ်ကျိုးမဖက် အများအကျိုးအတွက် သာသနာတော်အကျိုးကို ဆောင်ရွက်တော်မူကြရင်း ကိုယ်စီကိုယ်င တစ်ဘဝသာသနာကို ပြုစုတော်မူသွားကြခြင်းပင် ဖြစ်ပါသည်၊ ဤအချက်များကိုလည်း စိတ်ဝင်စားနေမိခဲ့ပါသည်။ ။



ပထမရွှေကျင်ဆရာတော်ဘုရားကြီး



လယ်တီဆရာတော်ဘုရားကြီး

## ယနေ့ခေတ်တိုင် ထင်ဟပ်၍ ကျန်ရစ်ခြင်းများ

**ပထမရွှေကျင် ဆရာတော်ဘုရားကြီး** ဤနေရာတွင် စာရေးသူတို့ သိမီ၍ လက်လှမ်းမီသမျှ တင်ပြရပါမူ ... ရွှေကျင်ဆရာတော်ဘုရားကြီးသည် စာပေပရိယတ္တိကို အခြေခံ၍ ဝိနည်းပဋိပတ္တိကို အလေးထားတော်မူ၏၊ သာသနာတော်တွင် ရဟန်း သံဃာတော်များကို လူအများ အကြည်ညိုခံနိုင်အောင် အဆုံးအမ ပေး၍ သာသနာ့ကျက်သရေကို ဆောင်တော်မူသွားကြပါသည်။

**ရေစကြိုနှင့် ပခုက္ကူဆရာတော်များ** ရေစကြိုဆရာတော်ဘုရားကြီး အမှူးရှိသော ပခုက္ကူဆရာတော်ဘုရားကြီးများမှာ ပရိယတ္တိသာသနာတွင် သင်ရိုးမျှမက "ကျမ်းအိပ်များ"ဟု ဆိုရသော နိကာယ်ကြီးများကိုပါ ချပို့ပေးတော်မူကြ၏၊ ဤနည်းအားဖြင့် ... ပိဋကတ် သုံးသွယ် နိကာယ် ငါးရပ်တို့ကို တစ်ဖက်ကမ်းခတ် ပေါက်မြောက်အောင် သံဃာတော်တို့အား ချပို့ပေးတော်မူကြခြင်းဖြင့် ဘုရားသာသနာတော်ကို ထိန်းတော်မူကြပါပေသည်။

**လယ်တီဆရာတော်ဘုရားကြီး** လယ်တီဆရာတော်ဘုရားကြီးနှင့် တပည့်ပရိသတ်တို့ကား ဗုဒ္ဓမြတ်စွာ၏ အဘိဓမ္မာတွေကို လူအများ နားလည်သိလွယ်အောင်နှင့် ဝိပဿနာဘက်ကို အာရုံစိုက်လာအောင် ရွက်ဆောင်ကြိုးပမ်းတော်မူကြ၏၊ ယနေ့ မြန်မာပြည်

အရပ်ရပ်တွင် အဘိဓမ္မာနှင့်ဝိပဿနာ ပြန့်ပွားနေသည်မှာ ဆရာတော်ဘုရားကြီး၏ လုံ့လပယောဂ ဟု ဆိုလျှင် မှားနိုင်မည် မထင်ပါ။

ဤသို့လျှင် ကိုယ်စီကိုယ်င ဆရာတော်ဘုရားကြီးများ ဆောင်ရွက်သွားတော်မူကြသည်မှာ အသီးအသီး "တစ်ဘဝသာသနာ"များပင် ဖြစ်ကြပါသည်၊ ဤသို့ ဆောင်ရွက်တော်မူသွားကြခြင်းမှာ ကိုယ်ကျိုးမဖက် ပရဟိတ သက်သက်များသာ ဖြစ်ကြပါ၏၊ ဤအချက်ကိုလည်း စိတ်ဝင်စားနေမိခဲ့ပါသည်။

**အမရပူရ မဟာဂန္ဓာရုံဆရာတော်**

ယခု တင်ပြမည့် အမရပူရမြို့, မဟာဂန္ဓာရုံကျောင်းတိုက် ဆရာတော် အရှင်ဇနကာဘိဝံသသည်လည်း ဆိုခဲ့ပြီး ဆရာတော်ကြီးများကဲ့သို့ပင် သာသနာတော် တစ်နံတစ်လျား၌ ထင်ရှားစွာ ပရဟိတအကျိုးကို သယ်ပိုး ဆောင်ရွက်သွားသော ဆရာတော်တစ်ပါး ဖြစ်ပါသည်။

ဤဆရာတော်ကား ရွှေကျင်ဒုတိယသာသနာပိုင် မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးနှင့် ထရံကာဆရာကြီးတို့၏ ဆွေမျိုးထဲက ဖြစ်၏၊ ထို့ပြင် ရွှေကျင်ဂိုဏ်းကြီး၏ ပဋိပတ္တိဘက်တွင် နေအသွင် လအသွင် ထင်ရှားသော စစ်ကိုင်းမဟာဂန္ဓာရုံဆရာတော်, ဒုတိယမဟာဂန္ဓာရုံဆရာတော် တို့၏ ပြုပြင်မှုကို ခံယူရသူလည်း ဖြစ်သည်၊ ထို့မှတစ်ပါး ရွှေကျင်ဂိုဏ်းကြီး၏ ရတနာတစ်ဆူ ဖြစ်တော်မူသော အဘယာရာမဆရာတော်, သာသနာပိုင်ဖြစ်တော်မူသော (မြောင်းမြပဓာနတာရုံ) ဝိသုဒ္ဓါရုံမြောင်းမြဆရာတော်ဘုရားကြီးတို့၏ ရှေ့ဆောင်မှုကို ရရှိခဲ့သူလည်း ဖြစ်ပါသည်။

တစ်ဖန်တုံလည်း ကျေးဇူးရှင် ပခုက္ကူဆရာတော်ဘုရားကြီးတို့၏ မေတ္တာအားဖြင့် ငါးရပ် နိကာယ်, သုံးသွယ်ပိဋကတ်တို့ကို ကမ်းခတ်အောင် သင်ပြပေးခြင်း ခံရသူလည်း ဖြစ်ပါသည်၊

ဤကဲ့သို့ ဆရာအဖုံဖုံတို့၏ နည်းမျိုးစုံကို ရခဲ့သည့်အားလျော်စွာ ဆရာတော် အရှင်ဇနကာ ဘိဝံသသည် ဝိနည်းကိုယ်ကျင့်ကို အခြေခံ၍ ဗုဒ္ဓမြတ်စွာ၏ ပရိယတ်သာသနာကို အရာထင်ထင် ပြုပြင်ဆောင်ရွက်သွားနိုင်စွမ်းသော ပုဂ္ဂိုလ်ထူးတစ်ပါး ဖြစ်ပါသည်၊ ဤဆရာတော်သည်လည်း ကိုယ်ကျိုးမဖက် ပရဟိတသက်သက်ဖြင့် ဆောင်ရွက်သွားခဲ့ပါသည်၊ ဤသည်တို့ကိုလည်း စိတ်ဝင်စား နေမိခဲ့ပါသည်။

သို့ဖြစ်၍ ဤဆရာတော်၏ လုပ်ဆောင်ချက် အကြောင်းတို့ကို ပေါင်းစုလျက် **"တစ်ဘဝ သာသနာ"**ဟူသော နာမည်ဖြင့် ဆရာတော်နှင့် သာသနာတော်အား ပူဇော်ခြင်း ဖြစ်ပါသည်။

ဤကဲ့သို့ ရဟန်းတော်များ သာသနာ့အကျိုး ဆောင်ရွက်တော်မူသွားကြသည်မှာ အင်္ဂုတ္တိုရ် ပါဠိတော်တွင် **သင်္ဂါရဝ**သုတ်၌ "ရဟန်းသည် မိမိ ကိုယ်ကျိုးသာ ကျင့်ခြင်းမဟုတ်, အများအကျိုး ငှာလည်း ကျင့်တော်မူခြင်း ဖြစ်သည်"ဆိုသော ဗုဒ္ဓ၏ မိန့်ခွန်းတော်နှင့်အညီသာ ဖြစ်တော်မူပါသည်။

**သာသနာ့အရေး သွေးမအေးသင့်**

မြန်မာလူမျိုး ဗုဒ္ဓဘာသာဝင်မှန်သမျှ မိမိ၏ ဘဝကို တန်ဖိုးအရှိဆုံး အသုံးချ နိုင်ရန် သာသနာတော်အရေး၌ သွေးမအေးသင့်ကြောင်း ထပ်လောင်း နှိုးဆော် ပါရစေ။

**အပ္ပမာဒေါ အမတံ ပဒံ, ပမာဒေါ မစ္စုနော ပဒံ၊**
**အပ္ပမတ္တာ န မီယန္တိ, ယေ ပမတ္တာ ယထာ မတာ။**

ဤ ဂါထာသည် **အသောက** ဘုရင်ကြီးနှင့် **အနော်ရထာ** ဘုရင်တို့၏ သာသနာတော်ကြီး သန့်ရှင်း တည်တံ့ ပြန့်ပွားအောင် ကြိုးစားရာတွင် အလွန်အရေးကြီးသော တရားဂါထာတစ်ပုဒ် ဖြစ်ပါသည်။

**အနော်ရထာနှင့် အသောက**

မြန်မာပြည်၏ သမိုင်းကို သိလို၍ လေ့လာသူ မှန်သမျှ ပုဂံပြည် အနော်ရထာ ဘုရင်ကို မသိသူ မရှိကြ၊ ပုဂံပြည်နှင့် အနော်ရထာဘုရင်ကို သိမှသာ မြန်မာ ပြည်၏ သမိုင်းကို သိခြင်း၌ ပြည့်စုံပါမည်။

ကမ္ဘာ့သမိုင်းကို လေ့လာရာတွင်လည်း ခရစ်တော် မပေါ်မီ ဗုဒ္ဓမြတ်စွာ ပွင့်ပေါ်ပြီးနောက် နှစ်ပေါင်း နှစ်ရာကျော်အတွင်း အိန္ဒိယ ပြည်ကြီးတွင် အသောက ဘုရင်မင်းမြတ်ကြီး ပေါ်ပေါက် ခဲ့ပါသည်၊ ထို မင်းမြတ်ကြီးသည် ကမ္ဘာ့သမိုင်းကို လေ့လာသူတိုင်း မသိ မဖြစ်အောင် ထင်ရှား ကျော်စော၍ ကမ္ဘာ့သမိုင်းပညာရှင်များ ကိုယ်တိုင် မသိမဖြစ်, သိရှိမှသာ ကမ္ဘာ့သမိုင်းတွင် ပြည့်စုံ ပါမည်။

**အနော်ရထာ**သည် မြန်မာပြည်သားတို့၏ အကျိုးကို ဆောင်ရွက်ရာတွင် အဖက်ဖက်မှ အကျိုး ပြုရုံသာမက အထူးသဖြင့် လူသားတို့၏ အဓိက ချမ်းသာသုခကို ပေးစွမ်းနိုင်မည့် သမ္မာဒိဋ္ဌိ အယူမှန်ကို စွမ်းဆောင်နိုင်ခဲ့သော ခေါင်းဆောင်ကောင်းတစ်ယောက် ဖြစ်ခဲ့ပါသည်။

ပုဂံပြည်အဝန်းတွင် မင်းနှင့်ပြည်သူတို့မှာ အယူမှား, အားကိုးမှားလျက်ရှိသော အရည်းကြီး ရှင်ယောင်တို့အား ကိုးကွယ်ဆည်းကပ် အားထားနေကြရာမှ **အရှင်အရဟံ**ကဲ့သို့ သူတော်ကောင်း ပုဂ္ဂိုလ်ထူးနှင့်တွေ့ကြုံခဲ့ရခြင်းကြောင့် မိမိနှင့်တကွ မိမိကို အားထားယုံကြည်ကြသူ တိုင်းသူပြည်သား တို့အား သမ္မာဒိဋ္ဌိ အယူမှန်သို့ ရောက်အောင် ပို့ဆောင်နိုင်ခဲ့ပါသည်။

**အသောက** ဘုရင်မင်းမြတ်ကြီးသည်လည်း လက်ရုံးအားဖြင့် ဘုန်းကြီး အောင်မြင်ခဲ့သော်လည်း ပစ္စုပ္ပန် သံသရာ နှစ်ဖြာသောအကျိုးစီးပွားအတွက် မိမိအလိုဆန္ဒ ကျေနပ်မှုမရဘဲ ရှိနေစဉ် **နိဂြောဓ** သာမဏေကဲ့သို့ အသက်အရွယ်အားဖြင့် ငယ်လှသော်လည်း ပညာအားဖြင့် ကြီးကျယ်မြင့်မြတ် သော ပုဂ္ဂိုလ်မျိုးကို အမှီရသဖြင့်သာလျှင် မိမိ အကျိုးစီးပွား, အိန္ဒိယပြည်တွင်းရှိ တိုင်းသူပြည်သား များ၏ အကျိုးစီးပွားသာမက... ကမ္ဘာအနှံ့ သူတော်ကောင်းတရား အယူမှန် ပြန့်ပွားအောင် ဆောင်ရွက်နိုင်ခဲ့သည်မှာ ကမ္ဘာ့သမိုင်းဆရာများ မသိလျှင် မပြည့်စုံဘဲသာ ဖြစ်ပါမည်။



အသောကကျောက်တိုင်

**ကမ္ဘာကျော်အသောက** ကမ္ဘာကျော် စာရေးဆရာကြီး အိပ်ချ်ဂျီ ဝဲစ်နှင့်တကွ ဒေါက်တာ ထော်ပိုလ်စတင် အစရှိသော ကမ္ဘာ့သမိုင်း ဆရာကြီးများသည်... ကွန်စတန်တင်ဘုရင်ကြီး, ရှားလမိုင်းဘုရင်ကြီး, အလက်ဇန္ဒာ ဘုရင်ကြီး, ဆီဇာ ဘုရင်ကြီး, နပိုလီယံဘုရင်ကြီးစသည်တို့ကို ဝေဖန်ရေးသားပြကြပြီးလျှင် အသောက ဘုရင်ကြီး၏ ဂုဏ်ကျေးဇူးကို အောက်ပါအတိုင်း ဖော်ပြရေးသားကြပါသည်။

အသောက မင်းတရားကြီးအတွက်မူကား ကမ္ဘာပေါ်ရှိ ဧကရာဇ်ဘုရင်ကြီးများတွင်ရှိသော ကောင်းသော ကျော်စောခြင်း သတင်းများကို စုပေါင်း ဖော်ပြမှသာ ပြည့်စုံပါမည်။

ဗုဒ္ဓ သာသနာတော်ကို အခြေ တည်၍ သူတော်ကောင်းတရား ပျံ့နှံ့အောင် ဆောင်ရွက်ရာတွင် ဘာသာအသီးသီး၏ လွတ်လပ်ခွင့်ကို သူမတူအောင် ရရှိစေခဲ့ပြီးလျှင် လူ့လောကသားများ၏ အကျိုးသာမက တိရစ္ဆာန်သတ္တဝါတို့၏ အကျိုးကိုပါ ကာကွယ် စောင့်ရှောက်ကျင့်သုံးတော်မူခဲ့ပါသည်။

ထို့ကြောင့် ကွန်စတန်တင် ဘုရင်ကြီးမှလည်းကောင်း, အလက်ဇန္ဒာဘုရင်ကြီးမှလည်းကောင်း, နပိုလီယံကဲ့သို့သော ဘုရင်ကြီးများမှလည်းကောင်း ကောင်းသောဂုဏ်အင်္ဂါများကို စုပေါင်းယူမှသာ အသောကမင်းကြီး၏ဂုဏ်အင်္ဂါ ကျော်စောခြင်းသည် ပြည့်စုံပါမည်၊ ကမ္ဘာ့ရာဇဝင် အစောင်စောင်တို့တွင် ထင်ပေါ် ကျော်ကြားကြကုန်သော ဧကရာဇ်ဘုရင်ကြီးပေါင်းများစွာတို့အနက် အသောကမင်းတရားကြီး တစ်ယောက်တည်းသာလျှင် ကြယ်တာရာအလား ထင်ရှားခြင်းရှိ၏၊ ၎င်း၏ဘွဲ့နာမည်တော်ဆိုလျှင် ဘော်လဂါမြစ်မှသည် ဂျပန်နိုင်ငံတိုင်ရောက်အောင် ယခုထိ ရှိသေလေးမြတ်ခြင်း ရှိကြ၏၊ တရုတ်, တိဗက်, အိန္ဒိယ, သီဟိုဠ်နှင့် အင်ဒိုချိုင်းနားကျွန်းဆွယ်ရှိ တိုင်းနိုင်ငံ မှန်သမျှတွင် အသောကဘုရင်ကြီး၏ ကြီးကျယ်မြင့်မြတ်သော ဂုဏ်ကျေးဇူးတို့ကို ကောင်းစွာ သိမ်းဆည်းသိုမှီးလျက် အထွတ်အမြတ်ထားကြပေသည်၊ ယခုခေတ် ပညာရှာမှီးလိုလား သူအများတွင်လည်း ကွန်စတန်တင်ဘုရင်ကြီးနှင့် ရှားလမိုင်းဘုရင်ကြီးတို့ထက် အသောကမင်းတရားကြီး၏ အကြောင်းအရာ အမည်ကိုသာ အမြတ်တနိုး ပြုလုပ်ပြောဆိုလျက် ရှိကြကုန်၏ဟု ကမ္ဘာ့သမိုင်းပညာရှင်များက ရေးသား ပြောဆိုကြပါသည်။

**အသောက၏ဂုဏ်သည် ဘာလဲ?**

အသောကမင်းတရားကြီးသည် ထိုမျှလောက် ကမ္ဘာ့သမိုင်းဆရာများ, ပညာရှိကြီးများ ချီးမွမ်းရလောက်အောင် ကျော်စောခြင်းဂုဏ်အင်္ဂါနှင့် ပြည့်စုံရသည်မှာ အဘယ်ကြောင့်ပါနည်း?... စစ်မက်တိုက်ခိုက်မှု၌ အောင်မြင်၍ လူမျိုးအသီးသီး, တိုင်းပြည်အသီးသီးကို လွှမ်းမိုးအောင်မြင်၍ မိမိ ထင်တိုင်းလုပ်နိုင်သဖြင့် ဘုန်းလက်ရုံး အာဏာတန်ခိုး ပျံ့နှံ့ကြီးကျယ်၍ ဤမျှ ကမ္ဘာကျော်အောင် ကျော်စောရပါသလော?

ဤအချက်များသည် အသောကဘုရင်ကြီး၏ ဂုဏ်ကျေးဇူးများ မဟုတ်ကြပါ၊ အမှန်အားဖြင့်ကား အသောကဘုရင်ကြီး၏ လူမျိုးမရွေး, ဘာသာမရွေး, အဆင့်အတန်းမရွေး မိမိတို့ ရသင့်ရထိုက်သော လောကီစီးပွား ရရှိရေး, အယူမှန် ရရှိရေး, အသိအမြင်မှန် ရရှိရေး သံသရာ၌ အေးငြိမ်းချမ်းသာစေခြင်းငှာ သူတော်ကောင်းတရား အစစ်အမှန်ကို အဆင့်အတန်း အမျိုးမျိုးဖြင့် မိမိစွမ်းအားရှိသမျှ ကမ္ဘာအနှံ့ ဆောင်ရွက်ခဲ့ခြင်းဟူသော အကြောင်းများသည်သာ အဓိက ပဓာနအချက်ဖြစ်ပါသည်။

ဤပဓာန အကြောင်းအချက်များကြောင့် ပညာရှင်အများ၏ ချီးကျူးခြင်း ခံရသည်မှာလည်း အသောကဘုရင်ကြီး၏ အလုပ်နှင့် စိတ်နေသဘောထား ရည်ရွယ်ချက်တို့ကို ဖော်ပြထားသော အထောက်အထားများ ဖြစ်ပါသည်၊ ယနေ့ လက်တွေ့သိရှိနေရသော အသောကကျောက်စာများကလည်း အတိအလင်း သက်သေခံလျက် ရှိနေကြပါသည်။

အိန္ဒိယနိုင်ငံနှင့်တကွ ကမ္ဘာပေါ်တွင် ဗုဒ္ဓဟူသည့် အတုမရှိသော ပုဂ္ဂိုလ်ထူးတစ်ဦး ပေါ်ပေါက်ခဲ့ပြီး နောက်ပိုင်းတွင် ထိုဗုဒ္ဓ၏ တရားတော်မြတ်တို့ကို ကမ္ဘာအနှံ့အပြား ပြန့်ပွားအောင် ကြိုးစားအားထုတ်သော ပုဂ္ဂိုလ်အများတွင် အသောကမင်းတရားကြီးသာလျှင် အအောင်မြင်ဆုံး အထင်ရှားဆုံး ပုဂ္ဂိုလ်ကြီးတစ်ပါး ဖြစ်ပါသည်။

**ယှဉ်ပြိုင်ဘက်မရှိသော ခေါင်းဆောင်**

မြန်မာပြည်သမိုင်း တစ်ခုလုံးတွင်လည်း မြန်မာလူမျိုးတို့၏ လောကီအကျိုးစီးပွား အယူမှန် ရရှိ၍ လောကုတ္တရာအကျိုး အရှည်သဖြင့် တည်တံ့ခိုင်ခံ့စေပြီးလျှင် မြန်မာလူမျိုးတို့၏ စိတ်ဓာတ် ခိုင်မာရေး, အသိပညာ တိုးတက်ရေး, စီးပွား ဖွံ့ဖြိုးရေး, တိုင်းသားပြည်သူ လူမျိုးမရွေး တိုင်းရင်းသား မှန်သမျှကို စည်းလုံးညီညွတ်၍ အဖက်ဖက်မှ ပစ္စုပ္ပန် သံသရာ နှစ်ဖြာသောအကျိုးကို ပြည့်ပြည့်ဝဝ ဆောင်ရွက်ခဲ့သော ပုဂ္ဂိုလ်တို့တွင် **အနော်ရထာ**ဘုရင်နှင့် နှိုင်းယှဉ်စရာ တစ်စုံတစ်ဦးသော ပုဂ္ဂိုလ်မျှ မြန်မာ့သမိုင်းတွင် ပေါ်ပေါက်သည်ကို့ မတွေ့ရှိခဲ့ရပါ၊ အနော်ရထာဘုရင်သာလျှင် မြန်မာပြည်သားတို့၏ တစ်ဦးတည်းသော ယှဉ်ဖက်မရှိသည့် ခေါင်းဆောင်တစ်ဦး ဖြစ်ခဲ့ပါသည်၊ သေဆုံးသည့်တိုင် အများအကျိုးကို ဆောင်ရွက်သွားသူ ဖြစ်ပါသည်၊ ဤကဲ့သို့ အသောကမင်းတရားကြီးနှင့် အနော်ရထာဘုရင်ကြီးတို့၏ အကြောင်းဂုဏ်ကျေးဇူးကို ဖော်ပြနေသည်မှာ စာရေးသူသည် ဗုဒ္ဓ၏ တပည့်သားဖြစ်၍ ဗုဒ္ဓဘာသာကို ထင်ရှားစေလို၍လည်း မဟုတ်ပါ၊ ဗုဒ္ဓဘာသာကို လူများအထင်ကြီးလာအောင်

ဖြစ်စေလို၍လည်း မဟုတ်ပါ၊ ၎င်းဘုရင်ကြီးများသည် ဤမျှ ကမ္ဘာသားတို့နှင့် မြန်မာပြည်သားတို့၏ ဂုဏ်ပြုခြင်း အထွတ်အမြတ်ထားရလောက်အောင် လူသားတို့၏ အကျိုးကို ဆောင်ရွက်နိုင်ပြီးလျှင် ကမ္ဘာကို ကျော်ကြားလောက်အောင် မြန်မာကို ကျော်ကြားလောက်အောင် ဖြစ်ရသည်မှာ ဘာကြောင့်ပါလဲဆိုသော အချက်ကို လူသားတိုင်းသိရန် အလွန်လိုအပ်ပါသည်၊ အလွန်သိသင့်သည်ဟု ယူဆသောကြောင့် အနည်းငယ် သိသာရုံမျှ ဖော်ပြနေခြင်း ဖြစ်ပါသည်။

လူအများသည် ကမ္ဘာပေါ်တွင် ကျော်ကြားထင်ရှားသူများကို သိကြပါ၏၊ ထိုသူများ၏ ကျော်ကြားခြင်းသည် အကျိုးရှိလား-အကျိုးမဲ့လား ဆိုသည်ကိုလည်းကောင်း, ကျော်ကြားမှုရခြင်း၏ အရေးကြီးသော ကွင်းဆက်နှင့် အချက်ကိုလည်းကောင်း အလွန်သိနိုင်ခဲ့ကြပါသည်။

**ပါရမီရှင်တို့၏ စိတ်ဓာတ်ခံ**

အသောကဘုရင်ကြီးသည် မိမိ အလိုဆန္ဒရှိသလို ပြုပြင်နိုင်သော အခြေသို့ ရောက်ရှိသောအခါ လူအများ၏ ကိုးကွယ်ယုံကြည်မှုနှင့် ဆက်သွယ်၍ မိမိ၏ နန်းတော်အတွင်း မိမိတို့၏ အပူဇော်ကို ခံယူရန် ကြွရောက်လာကြသော ပုဂ္ဂိုလ်များ၏ အသွင်အပြင် အမူအရာကို တွေ့မြင်ရခြင်းဖြင့် ဤသို့သော ပုဂ္ဂိုလ်များ၌ မည်သည့် နည်းနှင့်မျှ အတွင်းသန္တာန်၌ သူတော်ကောင်းတရားလည်း မရှိနိုင်၊... သူတစ်ထူးအားလည်း သူတော်ကောင်းတရား တည်တံ့အောင် ဆောင်ရွက်ပေးနိုင်စွမ်း ရှိကြလိမ့်မည်ဟု အသောကဘုရင်ကြီး မယုံကြည်ခဲ့သဖြင့် မိမိ၏ စိတ်တွင် ကိုးကွယ်အားထားမှုနှင့် ပတ်သက်၍ ကျေနပ်နှစ်သက်မှု မရဘဲ ချမ်းမြေ့ကြည်ဖြူခြင်း မရှိခဲ့ပါ။

ထိုကဲ့သို့ ကိုးကွယ်အားထားမှုနှင့် ပတ်သက်၍ မတင်မကျ မကျေမနပ် အလိုမပြည့် ဖြစ်နေသော အချိန်... တစ်နေ့သောအခါတွင် နန်းရင်ပြင်မှ ဖြတ်သန်း၍ ငြိမ်ငြိမ်သက်သက် ဣန္ဒြေရရ မနှေးမမြန် မှန်မှန်ကြွသွားသော အသက်ခုနစ်နှစ် အရွယ်မျှရှိသော နိဂြောဓသာမဏေကို နန်းတော်ပေါ်မှ လှမ်းမျှော်တွေ့ရှိခဲ့ပါသည်၊ တွေ့မြင်လိုက်သည်နှင့် တစ်ပြိုင်နက် မိမိစိတ်တွင် ထိုသာမဏေငယ်၌ မုချ တရားထူးတစ်ခု ရှိလိမ့်မည်ဟု ထင်လိုက်မိပါသည်၊ ထို့ကြောင့် မှူးမတ်တစ်ဦးအား ထိုသာမဏေငယ်ကို နန်းတော်အတွင်းသို့ ကြွရန် ပင့်ဖို့ လွှတ်လိုက်ပါသည်၊ ပထမသွားသူ နှေးသည် ထင်၍ နောက်ထပ် နှစ်ဦး သုံးဦး ထပ်မံလွှတ်သော်လည်း သာမဏေမှာ မိမိ ပကတိသော ခြေလှမ်းဖြင့်သာ မှန်မှန် ကြွတော်မူပါသည်။

နိဂြောဓသာမဏေသည် နန်းတော်ပေါ်သို့ ရောက်၍ မတ်တပ်ရပ်လျက်နေစဉ် အသောကဘုရင်ကြီးသည် နိဂြောဓသာမဏေ၌ မွန်မြတ်သောတရား ရှိ-မရှိကို သိရစေခြင်းငှာ စမ်းသပ်သောသဘောဖြင့် "အရှင်ဘုရား သင့်တော်သော နေရာတွင် သီတင်းသုံးတော်မူပါဘုံရား"ဟု နေရာကို သီးခြား ပြင်မပေးဘဲ သာမဏေ၏ ဂုဏ်သတ္တိကို သိစေရန် စမ်းသပ် လျှောက်ထားလိုက်ပါသည်။

ထိုကဲ့သို့ လျှောက်ထားသောအခါ သာမဏေသည် မိမိထက် သိက္ခာဂုဏ်အင်္ဂါ ကြီး၍ ရိုသေလောက်သူများ မိမိ ပတ်ဝန်းကျင်တွင် ရှိသေးသလောဟု ကြည့်တော်မူပြီးလျှင် "ဤနေရာ၌ မိမိထက် သိက္ခာဂုဏ်ကြီးသူ မရှိ၊ ငါသာ အမြင့်မြတ်ဆုံး ဖြစ်သည်"ဟု သိတော်မူသဖြင့် အသောကဘုရင်

ထိုင်တော်မူသော ထီးဖြူစိုက်ထူထားသည့် ရာဇပလ္လင်သို့ တက်ရန် သပိတ်ကို ကမ်းတော်မူသည်ကို အသောကဘုရင် တွေ့တော်မူ၍ သပိတ်ကို လှမ်းယူပြီးလျှင်... "ဤသာမဏေသည် ယနေ့ ငါ၏ အိမ်တော်၏ အရှင်သခင် ဖြစ်လိမ့်မည်"ဟု အသောကဘုရင်ကြီး စဉ်းစားမိတော်မူခဲ့ပါသည်။

နိဂြောဓသာမဏေ ထိုင်နေတော်မူသောအခါ အသောကဘုရင်ကြီးက ယာဂု စားဖွယ်တို့ကို ကပ်လှူတော်မူရာ သာမဏေသည် မိမိ လုံလောက်ရုံမျှသာ ခံယူ၍ မျှတရုံမျှ သုံးဆောင်တော်မူပါသည်။

**အမြင်ပြောင်းသွားစေသော တရားတော်**

ဆွမ်းစားပြီးသောအခါ အသောကဘုရင်ကြီးသည် သာမဏေအား "အရှင်ဘုရား...အရှင်ဘုရားတို့၏ ဗုဒ္ဓမြတ်စွာက ဟောတော်မူအပ်သော တရားတော်ကို သိပါ၏လော"ဟု လျှောက်သော် "မင်းကြီး တစ်စိတ်တစ်ဒေသအားဖြင့်ကား သိပါ၏"ဟု မိန့်တော်မူသဖြင့် "အရှင်ဘုရား...တပည့်တော်အားလည်း အရှင်ဘုရားတို့ သိတော်မူသောတရားဖြင့် ဆုံးမဩဝါဒပေးတော်မူပါ"ဟု လျှောက်လေသော် သာမဏေသည် မင်းကြီး၏ စိတ်အလိုဆန္ဒနှင့် သင့်တော်မည့် ဓမ္မပဒပါဠိတော် အပ္ပမာဒဝဂ်မှ အစဆုံးဖြစ်သော...

**အပ္ပမာဒေါ အမတံ ပဒံ, ပမာဒေါ မစ္စုနော ပဒံ၊**
**အပ္ပမတ္တာ န မီယန္တိ, ယေ ပမတ္တာ ယထာ မတာ။**

**"ကုသိုလ်ကောင်းမှု၌ မမေ့မလျော့ခြင်းသည် သေခြင်း ကင်းရာ နိဗ္ဗာန်သို့ ရောက်ကြောင်း ဖြစ်၏၊ ကုသိုလ်ကောင်းမှု၌ မေ့လျော့ခြင်းသည် ပူပန်ဆင်းရဲ အဖန်တလဲလဲ သေရခြင်း၏အကြောင်းဖြစ်၏၊ ကုသိုလ်ကောင်းမှု၌ မမေ့မလျော့သော သူတို့သည် မသေရာ နိဗ္ဗာန်သို့ ရောက်ကြမည် ဖြစ်၍ မသေသောသူများ ဖြစ်ကြ၏၊ ကုသိုလ်ကောင်းမှု၌ မေ့လျော့သောသူတို့သည် အသက်ရှင်လျက် ရှိကြသော်လည်း အဖန်တလဲလဲသေကြရဦးမည်ဖြစ်၍ သေသောသူနှင့်တူကုန်၏"** ဟူသော တရားဂါထာကို ဟောတော်မူရာ...

"ရှေ့သို့ အရှင်ဘုရားတရားတော်ကို အဆုံးတိုင်ကြားတော်မူပါ"ဟု လျှောက်ပြီးလျှင် တရားအနုမောဒနာ ပြုတော်မူသည်အထိ နာယူပြီးလျှင် ဘုရားဆုံးသည်နှင့် တစ်ပြိုင်နက်... နိဂြောဓသာမဏေကို အကြောင်းပြု၍ နိဂြောဓသာမဏေ၌ ကြည်ညိုခြင်းဖြင့်ပင် သရဏဂုံနှင့် ငါးပါးသီလကို ဆောက်တည်၍ နန်းတော်တွင်း၌ ခြောက်သောင်းမျှသော သံဃာတော်အပေါင်းကို ဆွမ်းဝတ်လှူဒါန်းတော်မူခဲ့ပါသည်။

ဤအခြေသို့ ရောက်လောက်အောင် အသောကဘုရင်ကြီး ပြောင်းလဲခဲ့သည်မှာ နိဂြောဓသာမဏေ၏ ကြည်ညိုဖွယ်ကောင်းသော ဂုဏ်နှင့် တရားတစ်ပုဒ်၏ ဂုဏ်ကျေးဇူးသာ အဓိကဖြစ်ပါသည်၊ အသောကဘုရင်ကြီးသည် အရိယာ ဖြစ်သွားခြင်းကား မဟုတ်၊ သရဏဂုံသုံးပါးနှင့် ငါးပါးသီလကို သဘောပေါက် ဆောက်တည်၍ သာသနာတော်၏ ဂုဏ်ကျေးဇူးသည် သတ္တဝါများအား အကျိုးပြုနိုင်သည်ကို အကြွင်းမဲ့ ယုံကြည်သွားခြင်းသာ ဖြစ်ပါသည်။



**အရှင်အရဟံမထေရ်**

**အနော်ရထာ၏ သာသနာ့ယုံကြည်ချက်**

အနော်ရထာဘုရင်ကြီးသည်လည်း ပုဂံပြည်တွင် ဘုရင်မင်းမြတ်ဖြစ်လာပြီးနောက် အသောကဘုရင်ကြီးကဲ့သို့ပင် တိုင်းသူပြည်သား လူအများနှင့်မင်းပါ ဦးစားပေး၍ ကိုးကွယ်နေကြရသော အရည်ကြီးရဟန်းတို့ကို ကျေနပ်မှုမရဘဲ စိတ်မချမ်းမြေ့ မကျေမနပ် ဖြစ်ခဲ့ရသော်လည်း အရည်းကြီးရဟန်းတို့နှင့် ၎င်းတို့အား ကိုးကွယ်ကြသူ ပြည်သူအများအား မင်းအနေဖြင့် ဆန့်ကျင်ရန်လည်း မဝံ့၊... သင့်တော်သော ကိုးကွယ်မှုကိုလည်း အစားထိုးရန် မိမိ၏ ဉာဏ်၌ မထင်ဘဲ ရှိနေသဖြင့် တွေဝေ စိတ်မောလျက် ရှိနေစဉ် အချိန်တွင် အရှင်အရဟံကဲ့သို့ မိမိကိုယ်တိုင် တရားပြည့်ဝပြီးလျှင် အခြားသူတစ်ပါး လူအများကိုလည်း တရားပေးနိုင်သော ကိုယ်ကျင့်တရားနှင့် ပြည့်စုံသူကို တွေ့ရသဖြင့်သာ အသောကဘုရင်ကြီးကဲ့သို့ပင် အရှင်အရဟံ၏ ဟောပြောသော အပ္ပမာဒဝဂ်မှ **"အပ္ပမာဒေါ အမတံ ပဒံ"** အစချီသော ဂါထာကို ကြားနာရသဖြင့် မြန်မာပြည်၏ သမိုင်းတစ်ခုလုံးကို ပြောင်းလဲ၍ မြန်မာပြည်သား လူအများ၏ လောကီ-လောကုတ္တရာ အကျိုးစီးပွား နှစ်ခုလုံးကို ပြည့်ပြည့်ဝဝ ဆောင်ရွက်တော်မူသွားနိုင်ခဲ့ပါသည်။

ဤသည်တို့မှာ ကိုယ်စီကိုယ်င **တစ်ဘဝသာသနာ** ပြုခဲ့ကြခြင်းပင် ဖြစ်တော့သည်။

**တစ်ဘဝသာသနာစာအုပ်ဖြစ်မြောက်အောင် ကြိုးစားဆောင်ရွက်ခဲ့သူများ**

**သာသနာ ၂၅၂၇ ၊ ကောဇာ ၁၃၄၅ ခု**
**တပို့တွဲလပြည့်၊ (၁၆-၂-၈၄) ကြာသပတေးနေ့။**

# ဤကျမ်းစာဖြစ်ပေါ်လာရခြင်းအကြောင်း

အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက် ကျေးဇူးရှင် အရှင်ဇနကာဘိဝံသ ဆရာတော်ဘုရားကြီး ပျံလွန်တော်မူပြီးနောက် နှစ်စဉ်နှစ်တိုင်း (ပျံလွန်တော်မူသော နတ်တော်လပြည့်ကျော် ၂-ရက်နေ့တွင်)တပည့်တပန်း ရဟန်းရှင်လူ ဒါယကာ ဒါယိကာမများ စုပေါင်း၍ အထိမ်းအမှတ်ပူဇော်ပွဲ ကျင်းပမြဲ ဖြစ်သည်၊ "အထိမ်းအမှတ်ပူဇော်ပွဲ"ဆိုသော်လည်း ထူးထူးထွေထွေ ခမ်းခမ်းနားနား ဆန်းဆန်းပြားပြား ပြုလုပ်ကြသည် မဟုတ်ပါ၊ ထိုနေ့တွင် တစ်ကျောင်းတိုက်လုံး စာသင် စာချ ရပ်နား, သက်သတ်လွတ်များ စားကြ၍ တစ်နေရာတည်း၌ စုပေါင်းပြီးလျှင် တရားဘာဝနာရှုပွားကာ ဓမ္မပူဇာဖြင့် ပူဇော်ကြခြင်းသာ ဖြစ်ပါသည်။

ထိုသို့ ကျင်းပပူဇော်လာခဲ့ကြရာ ၃-နှစ်မြောက်သော ၁၃၄၂-ခုနှစ်တွင် ပူဇော်ပွဲသို့ လာရင်း ကျောင်းတိုက်နှင့် ရင်းနှီးသော ရန်ကုန်မှ ဒကာထိန်ဝင်းက ကျောင်းတိုက်ရှိ နာယကဆရာတော်များအား အောက်ပါအတိုင်း လျှောက်ထားလာပါသည်။

"နာကကဆရာတော်များဘုရား...ပျံလွန်တော်မူသွားသော ဆရာတော်ဘုရားကြီး၏ တစ်ဘဝသက်တမ်းတစ်လျှောက်တွင် ပြုလုပ်ဆောင်ရွက်သွားခဲ့တဲ့ သာသနာပြုလုပ်ငန်းတွေဟာ အလွန် များပြားလှပါတယ်၊ သာသနာတော်နှင့် တိုင်းပြည်အတွက် ကျေးဇူးတွေ အလွန်များပြားလှပါတယ်ဘုရား၊ ဒါတွေကို အတွင်းကျကျ ကျယ်ကျယ်ပြန့်ပြန့် လူတိုင်း သိကြမည် မဟုတ်ပါ၊ ရဟန်း ရှင်လူ ပြည်သူအများ သိသင့်သိထိုက်သည်ဟု ထင်မြင်ယူဆပါတယ်ဘုရား၊ ယခု ထွက်ပေါ်လာပြီးဖြစ်တဲ့ ဆရာတော်ဘုရားကြီးကိုယ်တော်တိုင် ရေးသွားခဲ့သော **"တစ်ဘဝသံသရာ"**စာအုပ်က သူ့ဘဝဇာတ်ကြောင်း ပေါ်ရုံမျှသာ မှတ်တမ်းတင်သွားခြင်း ဖြစ်ပါသည်၊ ဒါကြောင့် ကျန်နေတဲ့ ဆောင်ရွက်ချက်တွေကို ပါနိုင်သမျှ ပါအောင် စုရုံးပြီး (တစ်ဘဝလုံးအတွက် ဆောင်ရွက်ခဲ့တဲ့ သာသနာပြုလုပ်ငန်းတွေမို့) **"တစ်ဘဝသာသနာ"**ဆိုတဲ့ အမည်နဲ့ စာအုပ်တစ်အုပ် နာယကဆရာတော်များက ရေးသားသင့်သည်ဟု ထင်မြင်ပါတယ်ဘုရား"...

**စာအုပ်ရေးသားရန် လက်ခံကြခြင်း**

ဟုတ်ပါသည်, ဒကာထိန်ဝင်း လျှောက်ထားချက်သည် သင့်မြတ် မှန်ကန်လှပါသည်၊ ပျံလွန်တော်မူသွားခဲ့သော ကျေးဇူးရှင်ဆရာတော်ဘုရားကြီးက အလုပ်တွေကိုသာ အာရုံစူးစိုက်ပြီး ဆောင်ရွက်လုပ်ကိုင်နေတော်မူတတ်ပါသည်၊ မိမိ ဆောင်ရွက်သမျှ လုပ်ကိုင်သမျှ ကြိုးစားသမျှတွေကို ဖော်ထုတ်ပြပြီး ပလွှားဝါကြွားလေ့မရှိပါ၊ မပြောမဖြစ် ပြောမှဖြစ်မည့် အကြောင်းများ တိုက်ဆိုင်လာသော်မှလည်း ၁၀ ပုံ ၁ ပုံ ပြောပြရိုး မရှိတတ်ပါ၊ မိမိဘဝဇာတ်ကြောင်းကို ဖော်ပြသော "တစ်ဘဝသံသရာ"စာအုပ်ကိုသော်မှ ဒကာထိန်ဝင်းက လျှောက်ထားဖန် များ၍သာ ရေးသားတော်မူရခြင်း ဖြစ်လေသည်၊ သို့တစေ ကြွင်းကျန်နေသော အချက်အလက်ပေါင်း များစွာ ရှိပါသေး၏၊ ဒကာထိန်ဝင်း လျှောက်ထားသလိုပင် ဆရာတော်ဘုရားကြီး၏ ဆောင်ရွက်သမျှ လုပ်ကိုင်သမျှ ကြိုးစားသမျှတွေကို ရှင်လူအများ သိသင့်သိထိုက်သည်မှာ အမှန်ပင် ဖြစ်၏၊ အများအကျိုးအလုပ်တွေ များစွာလုပ်သဖြင့် သာသနာတော်တွင် နေလို လလို ထင်ရှားသွားသော ဆရာတော်တစ်ပါး ဖြစ်၍လည်း ... ဆရာတော်ဘုရားကြီးနှင့်



## ပဥ္စလောဟာ ရုပ်ပွားတော်

"လောကကြီးထဲမှာ အဖိုးအလွန်အတန်ဆုံး ပုဂ္ဂိုလ်ကြီးတစ်ပါးကို ထုတ်ဖော်ပေးပါဆိုရင်
ဘုန်းကြီးကတော့ မြတ်စွာဘုရားကိုပဲ ထုတ်ပြမယ်"



ကိုယ်တည်းတစ်ယောက် ချမ်းသာရောက်ဖို့ ခုလောက်ကြိုးကုတ် အားမထုတ်ဘူး၊
ဗုဒ္ဓမြတ်စွာ သာသနာ၏ ရှေးခါဘိုးဘ လက်ထက်ကလျှင်
ရသည့်တန်ဖိုး ထပ်မညှိုးဖို့ အားကြိုးမာန်တက် ငါဆောင်ရွက်သည်
ဆက်လက် တည်တံ့ပါစေသော်။

ပတ်သက်၍ အကောင်းအဆိုး အကြောင်းအကျိုး အမျိုးမျိုးကို သိချင်ကြသည်မှာ ဧကန်ပင် ဖြစ်ပါလိမ့်မည်၊ ထို့ကြောင့် **"တစ်ဘဝသံသရာ"**စာအုပ်၌ မပါခဲ့သေးသော အချက်အလက်များကိုပါ စုံစုံလင်လင် ထိန်ချန်မှုမရှိဘဲ ဖော်ပြရေးသားရမည်ဖြစ်သည့် **"တစ်ဘဝသာသနာ"**စာအုပ်ရေးသားရန် မိမိတို့ဘက်က လက်ခံကြရပါတော့သည်။

**စုပေါင်းဆောင်ရွက်ကြရန် ဆုံးဖြတ်**

သို့ရာတွင် ထိုက်ထိုက်တန်တန် ခုံခုံညားညား လေးစားဖွယ်ဖြစ်အောင် "ကျမ်းတစ်စောင် ပေတစ်ဖွဲ့"ဖြစ်ဖို့ အရေးကား လွယ်ကူလှသည်တော့ မဟုတ်ပါ။ မိမိတို့မှာ ဆရာတော်ဘုရားကြီး မရှိသည့်နောက် ... ကျောင်းတိုက်ကြီး၏ တာဝန်ကိုပါ နာယက ငါးပါးကြီးမှူး၍ အနုနာယကများ, စာချဘုန်းကြီးများဖြင့် သူ့ငန်း ကိုယ့်ငန်း ခွဲခြမ်းကာ ထမ်းဆောင်နေကြရပါသည်၊ ဆရာတော်ဘုရားကြီး ရှိစဉ်က တစ်ပါးတည်း ဆောင်ရွက်သွားသော တာဝန်အရပ်ရပ်တို့ကို ယခုအခါ နာယကငါးပါး ခွဲဝေ၍ ဆောင်ရွက်ရာ၌ပင် အကွက်စေ့အောင် အတော် ကြိုးစားနေရပါသည်၊ တာဝန်ကား ကြီးမားလှပါဘိ၏၊... အရှိန်အဝါ ခြားနားမှု၏ သာဓကတစ်ရပ်ပင်။

ထို့ကြောင့် ယခုအခါ တာဝန်တစ်ရပ် ပိုလာ၍ ဤစာအုပ်ကြီးအတွက် ပြီးမြောက်ဖို့ရန် တစ်ဦးကောင်း တစ်ယောက်ကောင်း စွမ်းအားဖြင့် ရနိုင်မည် မဟုတ်ပါ။ စုပေါင်း လက်တွဲ ဆောင်ရွက်မှသာ ပြီးနိုင်ဖွယ်ရာ ရှိပါသည်၊ တာဝန်တွေ များလှသော မိမိတို့ နာယက ငါးပါးမျှဖြင့်ပင် မလုံလောက်သလို ဖြစ်နေပါသည်၊ သို့ဖြစ်၍ နာယကများ စုပေါင်းတိုင်ပင်ကြပြီးနောက် ပူဇော်ပွဲသို့ ရောက်လာသော ရန်ကုန်မှ စာချဘုန်းကြီး (မဟာဂန္ဓာရုံ မူလစာချဘုန်းကြီး) **ဦးယောသိတ**ကိုပါ အကူတောင်းကြရတော့သည်။

စာချဘုန်းကြီး ဦးယောသိတသည် တစ်ချိန်က ဤ မဟာဂန္ဓာရုံကျောင်းတိုက်ကြီး၌ သာမဏေအရွယ် ခပ်ငယ်ငယ်ကပင် စတင်ကာ ဆရာတော်ဘုရားကြီးထံ ပညာရည်နို့ သောက်စို့ခဲ့သူ ဖြစ်၏၊ အခြေခံမှ စ၍ ပါဠိတော် အဋ္ဌကထာ ဋီကာ, အထက်တန်းကျမ်းစာကြီးများ ပြီးစီး ပေါက်မြောက်သည်အထိ သင်ကြားခဲ့၍ စာမေးပွဲများလည်း အောင်မြင်ခဲ့သူ ဖြစ်၏၊ ထို့ကြောင့်ပင် ဆရာတော်ကြီးက **"စာချဘုန်းကြီး"**အဖြစ် အသိအမှတ်ပြုကာ အရေးပေးခြင်းခံရသူများတွင် တစ်ပါးအပါအဝင်လည်း ဖြစ်ခဲ့ပေသည်။

ထိုမျှမက ဦးယောသိတ၏ စာပေရေးသားမှု၌ စရိုက် ဝါသနာ အထုံပါသည်ကို ဆရာတော်ဘုရားကြီး သိတော်မူခဲ့၍လည်း စာပေရေးသားရာတွင် အမွှမ်းအမံ အခြယ်အသ အထောက်အကူဖြစ်စေသည့် "အလင်္ကာဘာသာဋီကာကျမ်း"ကို ပို့ချ ရေးသားသောအခါ သူ့အား အချောရေးသားရန် ဆရာတော်ဘုရားကြီး၏ အစအဆုံး တာဝန်ပေးအပ်ခြင်း ခံရသူလည်း ဖြစ်ပေသည်။

ထို့ပြင် ဆရာတော်ဘုရားကြီး၏ ခြေတော်ရင်းမှာ ကြာရှည်လေးမြင့်စွာ ဆည်းကပ်လာခဲ့သူ ဖြစ်၍ ဆရာတော်ဘုရားကြီး၏ အလေ့အလာ သဘောထားများကိုပါ ရင်းနှီးစွာ သိနေခဲ့သူလည်း ဖြစ်ပါသည်၊ ထို့ကြောင့်လည်း မိမိတို့က သူ့အား အကူအညီတောင်းရခြင်း ဖြစ်ပေသည်၊ အမှန်စင်စစ်ကား မိမိတို့က အကူတောင်းရုံသာမက သူ့အား တာဝန်များ ပေးအပ်ရန်ပင် ရည်ရွယ်၍ သူ့ကို ရွေးချယ်ကြခြင်း ဖြစ်ပါသည်။

**စုပေါင်းဆောင်ရွက်မှု၏ အသီးအပွင့်**

ထိုအခါ ဦးဃောသိတက "တပည့်တော်ကိုချည်း ပုံပြီး မအပ်ကြပါနှင့်, တိုက်တာကြီးကို စီမံခန့်ခွဲ အုပ်ချုပ်နေကြတဲ့ ယခု လက်ရှိ နာယက များကလည်း ရေးသားပြီး သူ့အမြင် ကိုယ့်အမြင် တင်ပြကြလျှင်, ဆရာတော်ဘုရားကြီးရဲ့ အကြောင်းအရာကို ကိုယ့်အတွေ့အကြုံ ကိုယ့်ရှုထောင့်များဖြင့် တင်ပြကြမည်ဆိုပါက စုံစုံလင်လင် ပီပီပြင်ပြင် ဖြစ်ပါမည်"ဟု ဆိုသည်။

ဤသို့ ညှိနှိုင်းကြကာ စုပေါင်းစနစ်ဖြင့် ဤစာအုပ်ကြီးကို ဖော်ထုတ်ဖို့ရန် သဘောတူခဲ့ကြပါသည်၊ သို့ရာတွင် "အားလုံး ရေးသမျှကို ဦးဃောသိတက သူ့နေရာနှင့်သူ အကွက်ကျအောင် အစီအစဉ်ချ၍ လုပအောင် မွမ်းမံခြယ်သပါ"ဟု မိမိတို့က အထူးတာဝန် ထပ်မံပေးကြသောအခါ ဦးဃောသိတက မငြင်းဆန်ဘဲ ထိုတာဝန်များကိုလည်း "ကျေပွန်အောင် ဆောင်ရွက်ပါမည်"ဟု လက်ခံသဖြင့် ဝမ်းမြောက်ဝမ်းသာ အားလုံးက "သာဓု"ခေါ်ကြရပါသည်။

ဤသို့လျှင် စာချဘုန်းကြီး ဦးဃောသိတကို ပဓာနထား၍ နာယကဆရာတော်များက ဝိုင်းဝန်း ရေးသားပေးခြင်း, နှုတ်ဖြင့် ပြောပြပေးခြင်း, ဆရာတော်ဘုရားကြီး၏ အသုံးအဆောင် ကြိုးခွေတို့ကို ရှာဖွေပေးခြင်း, အနုနာယကများ စာချဘုန်းကြီးများကလည်း အချက်အလက်များကို ရှာဖွေစုဆောင်းပေးခြင်းဖြင့် စုပေါင်းဆောင်ရွက်ခဲ့ကြပါသည်။

ဤနည်းဖြင့် စာချဘုန်းကြီး ဦးဃောသိတကို ဦးဆောင်စေ၍ စုပေါင်းရေးသား ကြိုးစားလာခဲ့ကြရာ ၂-နှစ်ခန့်မျှ ကြာသောအခါ ယခု စာရှုသူတို့ တွေ့မြင်နေရသော **"တစ်ဘဝသာသနာ"** စာမူကြီးတစ်ခု ပေါ်ပေါက်လာရပါတော့သည်၊ ဤကား စုပေါင်းဆောင်ရွက်မှု၏ အောင်မြင်မှု အသီးအပွင့်များပေတည်း။

ဤစာအုပ်ကြီးကို ကြည့်ရှုရသော ရဟန်း ရှင် လူ ပြည်သူအများတို့သည် ဆရာတော်ဘုရားကြီး၏ မနားမနေ ကြိုးစားခဲ့ပုံ, ဆရာတော်ဘုရားကြီး၏ တစ်ဘဝ ရေဆန်ခရီးတွင် လှော်ခတ်ခဲ့ရပုံ, နောက်ဆုံး၌ အောင်မြင်မှုများ ရ၍ အားကျစရာ ဖြစ်ပုံတို့ကို သိရပြီးလျှင် ဆရာတော်ဘုရားကြီးကို စံထားကာ ဆရာတော်ဘုရားကြီး၏ အများအကျိုး သယ်ပိုး၍ သာသနာပြုလုပ်ငန်း ကြီးပမ်းသည်တို့ကို သိရသဖြင့် ဆရာတော်ဘုရားကြီးကဲ့သို့ ဘဝပါရမီ ဆည်းပူးလိုခြင်း၊ ဆရာတော်ဘုရားကြီး၏ ဖြူလွင်သော စိတ်ထား, ကိုးစားအပ်သော သဒ္ဓါတရားတို့ကို သိရသောကြောင့် မိမိတို့လည်း ထိုကဲ့သို့ ဖြစ်ရလိုခြင်း၊ နောက်ဆုံးတွင် ဆရာတော်ဘုရားကြီး၏ သီလ သမာဓိ ဂုဏ်ပညာတို့ကို သိရသည့်အတွက် မိမိတို့လည်း ကြည်ညိုရ, အားကျရ, ကုသိုလ်သဒ္ဓါတရားပွားရခြင်း ဖြစ်သည်ဆိုလျှင် စုပေါင်းကြိုးစားရသမျှ, မိမိတို့ ပင်ပန်းကြီးစွာ လုံးပန်းရသမျှ ဆန္ဒပြည့်ဝ၍ ကျေနပ်ရမည် ဖြစ်ပါကြောင်း။

အရှင်စန္ဒောဘာသ
ပဓာနနာယကဆရာတော်
မဟာဂန္ဓာရုံကျောင်းတိုက်
အမရပူရမြို့
၁၃၄၄-ခု နတ်တော်လ (၁၉၈၃ ခု ဇန်နဝါရီလ)

# ဦးဆောင်ရေးသားသူ၏ ကျမ်းဦးစကား

**ကဗျာ့အာရုံထဲ စွဲနစ်နေကြစဉ်**

"ဒီစာအုပ်ကြီး ဖြစ်မြောက်အောင် ဝိုင်းဝန်း လုံးပန်းကြပါစို့"လို့ တိုင်ပင်တဲ့ နေ့ကပါ။ မဟာဂန္ဓာရုံကျောင်းတိုက် နာယကအဖွဲ့ဝင် ဘုန်းကြီး ဦးမဟိန္ဒက အမိန့်ရှိတယ်၊ "ကဲ... ရောက်တုန်းရောက်ခိုက် ဒီက တပည့်လေးတွေကို ကဗျာသင်တန်းလေး ဘာလေး ပေးပါဦး"တဲ့၊ ဒါနဲ့ သူ့အုတ်တိုက်အသစ်ကလေး အောက်ထပ်မှာ ဘောကြီးတစ်ချပ် ထောင်ပြီး သင်တန်းပေးနေခဲ့ပါတယ်။

ဝါသနာအိုးကလေးများ ဖြစ်ကြတဲ့ ရဟန်းငယ်များ, သာမဏေ ခပ်ကြီးကြီးများအားလုံး ၇၀ ကျော် ၈၀ နီးပါးလောက် ရှိမယ်ထင်ပါရဲ့ လာတက်ကြတယ်၊ ကိုယ့်ဆရာနဲ့ ကိုယ့်တပည့်တွေ ရင်းရင်းနှီးနှီးပါပဲ၊ ကဗျာစပ်ပုံ, ဖွဲ့နွဲ့သီကုံးရပုံ, စကားလုံး ရွေးချယ်ရပုံ, တွေးခေါ်ယူဆရပုံ နည်းမျိုးစုံကို သင်ပြပေးရင်း ရယ်လိုက် မောလိုက် ပြောလိုက် ဆိုလိုက်နဲ့ တစ်နေ့လုံးပဲ ကဗျာ့အာရုံထဲ စွဲနစ်နေကြပါတယ်၊ သူတို့လေးတွေကလည်း ကဗျာကို အတော်ရေးတတ်ချင်ပုံရရဲ့ မြူးနေကြတာပဲ။

**တာဝန်တွေ ပေးရမယ်တဲ့**

အဲဒီလိုနဲ့ ညနေကျတော့ ကဗျာသင်တန်းအပြီးမှာ နာယကဆရာတော်များက "ကြွပါဦး"တဲ့ ဆိုလို့ အဲဒီ တိုက်သစ်လေး အပေါ်ထပ်ကို တက်သွားရပါတယ်၊ "ဘာကိစ္စများပါလိမ့်" လို့ မျက်မှောင်ကြုတ်၍ တွေးမိပါတယ်၊ ခန်းမထဲ ဝင်လိုက်တယ်ဆိုရင်ပဲ "ဟော...ဦးယောကြီး ရောက်လာပြီ၊ သူ့ကို တာဝန်တွေ များများပေးရမယ်၊ သူ အဝေးကို သွားပြီး ချောင်ခိုနေတယ်"တဲ့၊ နာယကတစ်ပါးက ဦးဦးဖျားဖျား ဆီး၍ အပြစ်တင်ပါတော့တယ်၊ မိမိအနေနဲ့ ဘာပြန်ပြောလိုက်ရမယ်လို့ မသိအောင် ဖြစ်သွားရပါတယ်၊ သူတို့ ကိစ္စက ဘာမှန်းလဲ မသိသေးပါဘူး၊ "နာယကဆရာတော်များ အခေါ်ခိုင်းတယ်, ကြွပါဦး"ဆိုလို့သာ လာခဲ့ရတာပါ၊ "ဘာတွေများ ပေးချင်လို့ပါလိမ့်"လို့ စောစောက တွေးခဲ့မိတယ်၊ အခုတော့ တာဝန်တွေ ဆိုပါမင့်လား, "အလို...ဘာတာဝန်တွေများပါလိမ့်?"

**တစ်ဘဝသာသနာ စာအုပ်တာဝန်**

သူတို့က ကိုယ်စီ ပြုံးနေကြပါတယ်၊ "သူတို့" ဆိုတာက ... မဟာဂန္ဓာရုံ ကျောင်းတိုက် ဦးစီးနာယကဆရာတော်များရယ်, အနုနာယက အချို့ရယ်, စာချဘုန်းကြီး တချို့ရယ်, ပြီးတော့ ဒကာ ဦးထိန်ဝင်းနဲ့ဒကာ ဦးပေါ်ဇံ တို့ပါပဲ၊ ဝိုင်းထိုင်ပြီး စုဝေးနေကြပါတယ်၊ သူတို့နေရာအနီး ဝင်ထိုင်လိုက်ရင်ပဲ နာယကဘုန်းကြီး**ဦးကုဏ္ဍလာဘိဝံသ**က "ကဲ...လိုရင်းကို ပြောရရင် စာအုပ်ကြီးတစ်အုပ် ရေးဖို့ ဒကာထိန်ဝင်းက အခု လာလျှောက်နေတယ်၊ အဲဒါ ဦးယော တာဝန်ယူ ရေးပါ"

"ဘာစာအုပ်လဲ ဘုရား"...

"ကျေးဇူးရှင် ဆရာတော်ဘုရားကြီးရဲ့ တစ်ဘဝတာအတွင်း ဆောင်ရွက်ခဲ့တဲ့ သာသနာပြု အလုပ်တွေကို ဖော်ပြအပ်တဲ့ **တစ်ဘဝသာသနာ**စာအုပ်"

"ဟာ... တပည့်တော် ဘယ်စွမ်းနိုင်မှာလဲ ဘုရား"

**ခေါင်းမရှောင်ပါနဲ့** အဲသလို မိမိက စာအုပ်ကြီးရဲ့ ရည်ရွယ်ချက်နဲ့ စာအုပ်ကြီးရဲ့ နာမည်ကို ကြားလိုက်ရရုံနဲ့ပင် လန့်စရာကြီး ဖြစ်နေလို့ "စွမ်းနိုင်မည်မထင်"လို့ ရိုးရိုးပဲ ဝန်ခံရင်း ပြန်လှန် ငြင်းဆိုလိုက်ပါတယ်၊ သို့သော်လဲ မိမိရဲ့ စကားမျှပင် မဆုံးသေးမီ...လေးမျက်နှာ ဇာတိ ဘုန်းကြီး **ဦးကုဏ္ဍလက**...

"ဘာလို့ မစွမ်းနိုင်ရမှာလဲ၊ ဦးဃောက ကဗျာဆရာပဲ၊ အခုနကပဲ ကဗျာသင်တန်းတွေ ပို့ချလာခဲ့သေး၊ ကဗျာဉာဏ်တွေနဲ့ ရေးလိုက်ရင် ဖြစ်ရမှာပေါ့"

"မှန်ပါ-ကဗျာသာ ဖြစ်ချင် ဖြစ်မယ်ဘုရား၊ အခုလို ထည်ဝါတဲ့ ကျမ်းစာအုပ်ကြီး တစ်အုပ် ရေးရမယ်ဆိုတော့..."

"အံမယ်- အရှင်ဘုရားရဲ့ သတင်းတွေ ကြားပြီးသားပါ၊ ခေါင်းရှောင်မနေချင်စမ်းပါနဲ့၊ ရှိမနေပါနဲ့၊ နှစ်စဉ်နှစ်တိုင်း ရခိုင်ပြည်နယ်ဘက်ကို သွားပြီး စာရေးဆရာ လုပ်နေတယ် ဆိုပါလား"

"ဘယ်သူက ပြောလို့လဲ ဘုရား"

"အရှင်ဘုရား သူငယ်ချင်းတွေက ပြောတာပဲ"

"ဘာတွေများ ပြောထားသလဲဘုရား"

"အံမယ်- အရှင်ဘုရားက အဲဒီမှာ မျိုးစုံရေးတာတဲ့၊ ပဋ္ဌာန်းပွဲဆို ထင်ပါရဲ့၊ အဲဒီပွဲမှာ အများတကာ ဆိုဖို့ရာ ပါဠိဂါထာ မျိုးစုံ၊ မြန်မာကဗျာ မျိုးစုံ ရေးတာတဲ့၊ ဘုရားပင့်၊ နတ်ပင့်၊ ပလ္လင်ပင့်၊ ဘိသိက်သွန်း၊ တရားတောင်း၊ မေတ္တာပို့၊ အမျှဝေ၊ သံဝေဂ၊ ဩဘာစာ၊ ရတုပိုဒ်စုံတွေလဲ ရေးတယ်ဆိုပဲ၊ ကြားရတာဖြင့် ဒိုးပတ်သီချင်းများ အထိတောင် ရေးပေးတယ်လို့ ဆိုတယ်၊ တော်တော်လဲ ကောင်းဆိုပဲ"

"သည်လောက်လဲ တပည့်တော်ကို အထင်မကြီးကြပါနဲ့ဘုရား၊ စွမ်းနိုင်တာ မဟုတ်ပါဘူး"

**ပင်လယ်ကမ်းက မြို့ကလေး** လေးမျက်နှာဘုန်းကြီး ဦးကုဏ္ဍလက အစဖော်ပေးလိုက်ကာမှ မိမိဆောင်ရွက်ခဲ့ရတဲ့၊ ပါဝင်ခဲ့ရတဲ့ အလုပ်တွေ စိတ်အာရုံထဲမှာ ရုတ်တရက် ချက်ချင်း... အကွင်းသား အထင်းသား ပေါ်လာကြပါတော့တယ်၊ "စာရေးဆရာ"ရယ်လို့ မည်မည်ရရ ဖြစ်ဖြစ်မြောက်မြောက် ပြောပလောက်အောင်တော့ မဟုတ်ပါဘူး၊ ရခိုင်ပြည်နယ် ဘက်ကို သွားရတာတော့ ဟုတ်ပါတယ်၊ ပဋ္ဌာန်းပူဇော်ပွဲအတွက် သွားရတာပါ။

ဒါလဲ ကိုယ့်အစွမ်းရှိလို့တော့ မဟုတ်ပါဘူး၊ ရန်ကုန်မြို့ စမ်းချောင်း ဗားကရာလမ်း နေနတ်သား စာသင်တိုက်က နာယကဆရာတော်ကြီးနဲ့ တိုက်အုပ် တိုက်ကြပ်ဆရာတော်ကြီးများ၊ ပြည်လမ်း ၆ မိုင် ရတနာအောင်မြေကျောင်းတိုက်က ဆရာတော်ကြီးများက"လိုက်ခဲ့"လို့ခေါ်လို့ ပါသွားရတာပါ။

သွားရတဲ့ နေရာက "ဂွမြို့"လို့ ခေါ်တဲ့ မြို့ကလေး၊ နေနတ်သားတိုက်အုပ်ဆရာတော် ဦးပဏ္ဍိစ္စ ဆိုတာက အဲဒီ မြို့ကလေး ဇာတိသား၊ ဒါကြောင့် ရောက်၊ ရောက်သွားရခြင်းပါ။

**အေးချမ်းသာယာတဲ့ မြို့ကလေး**

ဒီ မြို့ကလေးဟာ ရခိုင်ရိုးမ တောင်တန်းကြီးကို နောက်မှီ ကျောပေးပြီး... အနောက်ဘက် ပင်လယ်ပြင်ကြီးထဲက ရေတွေ လှိုင်းတွေကို ကသိုဏ်းရှုနေသလို ကမ်းနဖူး သဲသောင်ခုံပေါ်က နေပြီး အေးအေးဆေးဆေး ထိုင်ကြည့်နေတဲ့ မြို့ကလေးပါ။ သူ့အနားရောက်တော့ ရခိုင်ရိုးမတောင်တန်းကြီးကလဲ ဂငယ်လေးလို ဝိုက်ဝိုက်ကလေး ကွေးသွားပါတယ်၊ ပင်လယ်လှိုင်းလုံးကြီးတွေက တောင်ခြေအထိ လာလာပြီး တိုးဝှေ့ကြပါတယ်၊ ဂငယ်ပုံရဲ့ လက်ယာဘက် အစွန်ကျကျ အောက်နားမှာတော့ ပင်လယ်ရေတွေထဲမှာ စိမ်းစိုတဲ့ ကျွန်းကလေးတစ်ခုက ဝိုင်းဝိုင်းကလေး ပေါ်နေပြန်ရော၊ အဲဒါက ဝဆွဲနဲ့ တူပါတယ်။

ဒီတော့ ကောင်းကင်အမြင့်က လေယာဉ်နဲ့ တက်ကြည့်မယ်ဆိုရင် ဂငယ် ဝဆွဲ **"ဂွ"**လို့ ပီပီသသကလေး ပေါ်နေပါတော့တယ်၊ ဒါကြောင့်လည်း "သူ့ ဗျူပွတ်နဲ့ သူ့နာမည် ကိုက်ညီပါပေရဲ့"လို့ ရောက်ဖူးတဲ့ ဧည့်သည်တွေက ချီးကျူး-ချီးကျူးသွားကြခြင်းပါပဲ။

**ပင်လယ်ကမ်းက ပဋ္ဌာန်းပွဲ**

အဲဒီ နေရာကို ရောက်သွားရင် စိတ်ကို လန်းဆန်း အေးမြသွားစေပါတယ်၊ အုန်းပင် ကွမ်းသီးပင်ကြီးတွေကလဲ သူတို့ မြို့ကလေးကို နေပျောက် မထိုးအောင် အခက်အလက်တွေနဲ့ မိုးပေးနေကြပါတယ်၊... နေရာဒေသက တိတ်ဆိတ် ငြိမ်းချမ်းလှသလို ဒေသခံ လူတွေရဲ့ မျက်နှာများကလဲ အပူရိပ် မသန်း၊ အေးချမ်းလှပါဘိ၊ လူနေ ရိုးသားကြတယ်၊ စိတ်ထား ဖြူစင်ကြတယ်၊ အဘိုး အဘွားတွေလဲ ပေါတယ်။

အဲဒီမြို့ကလေးက နှစ်စဉ်နှစ်တိုင်း ဆောင်းဝိုင်းရောက်လာပြီဆိုရင်... တစ်မြို့လုံးအနေနဲ့ စုပေါင်းပြီး "အသံမစဲ ပဋ္ဌာန်းရွတ်ဖတ်ပူဇော်ပွဲ" လုပ်ကြတယ်၊ အဲဒီပွဲမှာ မိမိက ဖွင့်ပွဲအခမ်းအနား ပိတ်ပွဲအခမ်းအနားတွေမှာ ဆိုဖို့ ရွတ်ဖို့ ပါဠိဂါထာမျိုးစုံ၊ မြန်မာကဗျာမျိုးစုံ၊ အဲဒီမှာရှိတဲ့ **"ယုဝဓာလာမွေ့စကြာအမျိုးသမီးများ"** ရွတ်ဖို့ စာတွေပါ တစ်နှစ်နဲ့တစ်နှစ် မတူရအောင် ရေးပေးရလေ့ ရှိပါတယ်၊ အဲဒါကို လေးမျက်နှာဘုန်းကြီးက ကြားထားလို့ ပြောတာ ဖြစ်မှာပါ။

ဒါတွေကို တရေးရေး ပြန်ပြီးတွေးနေမိရာက "အဲဒီကို သွားပြီးရေးရရင် ဖြစ်များဖြစ်မလား"လို့ အောက်မေ့မိပါတယ်၊ ဒါပေမယ့် "ဆရာတော်ကြီးရဲ့ အကြောင်းကို ရေးရမှာဆိုတော့ မလွယ်ပါဘူးလေ"လို့ မိမိရဲ့ စိတ်တွေဟာ မဝံ့မရဲ ဖြစ်လာကုန်ကြပြန်ရော...

**ကျေးဇူးဆပ်ဖို့ အခွင့်ပေါ်**

ဘာကြောင့်လဲဆိုတော့ ဆရာတော်ကြီးက ကျမ်းပြုပုဂ္ဂိုလ် အကျော်အမော် (စာပေသမား)၊ မိမိတို့ အလွန်လေးစားရတဲ့ ဆရာတော်ကြီး မဟုတ်ပါလား။ အဲလို ဆရာတော်ကြီးတစ်ပါးကို မိမိက စာပေနဲ့ပဲ ပြန်ပြီးပုံဖော်ရမယ်ဆိုတော့ မလွယ်တဲ့ကိစ္စ၊ အဲလို တွေးတောပြီးနေတုန်း နာယကဘုန်းကြီး **ဦးဣန္ဒောဘာသာဘိဝံသ**က...

"ဦးယော...ဘာဝိုင်နေတာလဲ? အပိုတွေ လျှောက်စဉ်းစားမနေနဲ့၊ အခုအချိန်ဟာ ကိုယ်တော့်အတွက် တာဝန်ထမ်းဖို့ ရောက်လာတဲ့ အချိန်ပဲ၊ ဒီလို တာဝန်တွေ ထမ်းဆောင်နိုင်အောင်လို့လဲ ဟိုတစ်ချိန်တုန်းက ကိုယ်တော့်ကို ဆရာတော်ကြီးက အလင်္ကာတွေ သင်ပေးသွားခဲ့တာ မဟုတ်လား"

အဲဒီလို ခြေခြေမြစ်မြစ် ထောက်ပြပြီး သတိပေးလိုက်ပြန်တော့ မိမိရဲ့ စိတ်တွေဟာ ပိုပြီး လှုပ်ရှားလာရပြန်ပါတယ်၊ အတိတ်က ဆရာတော်ဘုရားကြီးရဲ့ ကျေးဇူးတွေကိုလဲ ပိုပြီး သတိရလာရ ပြန်ပါတယ်၊ "ဒါဟာ ဧကန္တ ကျေးဇူးဆပ်ဖို့ အချိန်အခါ ရောက်လာတာနဲ့တူတယ်"လို့လဲ အောက်မေ့ မိပါတယ်။

**တစ်သက်တစ်ခါ ရခဲတဲ့ အခွင့်အရေးကြီး**

မိမိရဲ့ စိတ်တွေဟာ အဲဒီအချိန်မှာ လန်းလာလိုက်, ညှိုးသွားလိုက်၊ တက်လာလိုက်, ကျသွားလိုက်နဲ့ အမြန်နှုန်း ပြောင်းလဲနေတာကို မည်သူမျှ မသိကြပါဘူး၊ မိမိတစ်ဦးတည်းသာ ရင်တွင်း လှုပ်ရှားစွာနဲ့ သိနေပါတယ်၊ အဲဒီ အချိန်ထိတောင် မိမိကလဲ "အင်း မလုပ်, အဲ မလုပ်" ငြိမ်နေမိတုန်းပါပဲ၊ ဒါကြောင့် နာယက ဘုန်းကြီး **ဦးမဟိန္ဒ**က ပြောပြန်ပါတယ်…

"ဆရာတော်ကြီးရဲ့ စိတ်နေစိတ်ထား, ဆရာတော်ကြီးရဲ့ ရည်ရွယ်ချက်, ဆရာတော်ကြီးရဲ့ လုပ်ငန်းတွေ အကုန်လုံးကို ရုပ်လုံးပေါ်အောင် ရေးဖို့ဆိုတာကတော့ အခုအချိန်မှာ ဦးယောနဲ့ အဆင်ပြေဆုံးပဲ၊ ရေးနိုင်တဲ့ အရည်အချင်းလဲ ရှိသားနဲ့၊ မဟာဂန္ဓာရုံမှာ ငယ်ငယ် ကတည်းက ဆရာတော်ကြီးရဲ့ ထံပါးမှာ နေသွားပြီး၊ နောက်တော့မှ အပြင်ဘက်ထွက် သာသနာအတွက် အလုပ်လုပ်နေတဲ့သူဆိုတော့ အခုလို ရေးဖို့ကိစ္စမှာ ဒါ့ထက် အဆင် ပြေတဲ့သူ ဘယ်မှာ ရှိတော့မလဲ"

အကြီးဆုံး နာယကဖြစ်တဲ့ ဆရာတော် **ဦးဇနောဘာသ**က…

"ကဲပါလေ…တာဝန်တွေ ထမ်းဆောင်နိုင်မယ်ထင်လို့ ဝိုင်းပြီးပေးကြတဲ့ဥစ္စာ, ဘာ ဈေးကိုင်နေရတာလဲ၊ လက်ခံလိုက်၊ ဒီ နာယကတွေလဲ မရေးတတ်လို့မှ မဟုတ်ဘဲ၊ တာဝန် တွေ ကိုယ်စီရှိပြီး လုပ်ငန်းတွေ ပိနေကြလို့, မအားလပ်အောင် ဖြစ်နေကြလို့ ပြောနေ ကြတဲ့ဥစ္စာ၊ ဒီစာအုပ်ရေးဖို့ဟာ ဦးယောသိတနဲ့ အဆင်ပြေဆုံးပါပဲ၊ ဒါဟာ ဆရာတော် ကြီးကို ပူဇော်တာပဲ၊ အခုလို **"တစ်ဘဝသာသနာ"** စာအုပ်ကြီးရေးပြီး ဆရာတော်ကြီးကို ပူဇော်ရတယ်ဆိုတော့ အင်မတန် ရခဲတဲ့ အခွင့်အရေးကြီး, ဒါကို လိုချင်တိုင်း ရတာ မဟုတ်ဘူး၊ တစ်သက် တစ်ခါ ရတဲ့ အခွင့်အရေးကြီးကို လက်လွှတ်ခံလို့ တော်မလား၊ ဒါကြောင့်မို့ စဉ်းစားမနေနဲ့၊ လက်ခံလိုက်"

**စာအုပ်ကြီးရဲ့ ပုံကြမ်းမူ**

အဲသလို တိတိပြတ်ပြတ် နောက်ဆုံး အပြီးသတ် အမိန့်ချလိုက်ပါတော့ တယ်၊ မိမိတို့မှာ အစဉ်အလာကပဲ အကြီးဆုံး အစ်ကိုကြီးပမာ သဘော ထားပြီး လေးစားလာခဲ့ကြရတာဆိုတော့ သူ့စကားကို ပယ်လို့မဖြစ်တော့ဘူး၊ စိတ်ကို ဒုန်းဒုန်းချပြီး လက်ခံလိုက်ရပါတော့တယ်။

"ကဲ-ဟုတ်ပြီ၊ အဲဒီ စာအုပ်ကြီးကို ဘယ်လို မူနဲ့ ဘယ်လို ရေးရမှာလဲ"လို့ မိမိက ပြန်ပြီး မေးရပြန်ပါတယ်၊ ဒီတွင်မှ ဒကာ ဦးထိန်ဝင်းအလှည့် ရောက်လာပါတော့တယ်၊ **ဦးထိန်ဝင်း**က…

"ဒီစာအုပ်ကြီးကို ရေးတဲ့ နေရာမှာ ဆရာတော်ကြီးနဲ့ ပတ်သက်လို့ အားလုံး တိကျ မှန်ကန်တဲ့ အကြောင်းအရာတွေချည်း ဖြစ်ရပါမယ်၊ အပို မပါစေရပါဘူး၊ ပေါ့တန်တဲ့ စကားလုံးတွေလဲ ရှောင်ရပါမယ်၊ လူကြော်ငြာလည်း မဖြစ်စေရပါဘူး၊ ဆိုလိုတာက ဆရာတော်ကြီး ဘယ်လောက် တော်တယ်ဆိုတဲ့ ဥစ္စာတွေကို ရေးမယ့်အစား ဆရာတော်ကြီးဟာ သာသနာတော်အတွက် ဘာတွေ လုပ်ကိုင်သွားခဲ့တယ်, ဘယ်လို ကြိုးစားခဲ့ရ တယ်ဆိုတဲ့ အလုပ်တွေကိုသာ ပုံပေါ်အောင် ဖော်ဖို့ပါပဲ၊ ဒီစာအုပ်က အလုပ်ကို ဦးစား ပေးတဲ့ စာအုပ်, ဒါဟာ ဒီစာအုပ်ကြီးရဲ့ ပုံကြမ်းမူပါပဲဘုရား"လို့ လျှောက်ပါတယ်။

**ဝိနည်းကို တန်ဖိုးထားစေချင်လို့**

နာယကဘုန်းကြီး **ဦးကုဏ္ဍလာဘိဝံသ**က ထပ်ဆင့် ပြောပြန်ပါတယ်၊...

"ဆရာတော်ကြီးဟာ သူ့ဘဝ တစ်သက်တာလုံး သာသနာတော်ထဲ မြုပ် ထားတာ၊ သာသနာတော်အတွက်ပဲ လှုပ်ရှားကြိုးစားခဲ့တာ၊ ဘုရား အလို တော်ကျ သာသနာတော်ကြီး သန့်ရှင်း တည်တံ့ ပြန့်ပွားဖို့ ဒီအလုပ်ထက် ကြီးကျယ်တဲ့အလုပ် ဘာမှ မရှိဘူးလို့ သူ ယူဆထားတာ၊ အဲဒါတွေကို ရုပ်လုံးပေါ်အောင် အမှန်အတိုင်း အပိုအလို မပါအောင် ရေးဖို့ပါပဲ"

နာယကဘုန်းကြီး **ဦးဣန္ဒာဘာသာဘိဝံသ**ကလည်း ထပ်ဆင့် ဖြည့်ပြန်ပါသေးတယ်၊...

"အထူးသဖြင့် ဆရာတော်ကြီးရဲ့ ပညာရေးမူစနစ်ကို တိုင်းပြည်က အသိနည်းကြ ပါသေးတယ်၊ အများသိနေကြတာက 'ဆရာတော် အရှင်ဇနကာဘိဝံသကျောင်းတိုက်က ပညာရေးစနစ်ဟာ အခြေခံကောင်းတယ်'လောက်သာ အပေါ်ယံ သာမန်ပြောပြီး သာမန် သိနေကြတာပါ၊ အမှန်က ဆရာတော်ကြီး ဦးတည် (မူ)ချပေးနေတဲ့စနစ်က သာသနာ့ ဝန်ထမ်း ရှင်ရဟန်းတိုင်း ပိဋကတ်ကို လွယ်လွယ်နဲ့ တတ်ရမယ်၊ လွယ်လွယ်နဲ့ တတ်မှ ပိဋကတ် ပါဠိတော်ကြီးတွေထဲမှာ ရှိတဲ့ ဘုရားနဲ့ မြန်မြန် တွေ့မယ်၊ ဘုရားနဲ့ တွေ့မှ သဒ္ဓါတရားတွေ ခိုင်မြဲမယ်၊ သဒ္ဓါတရားတွေ ခိုင်မြဲမှ သာသနာတော်ရဲ့ အနှစ်သာရ သီလ သမာဓိ ပညာ ဝိနည်းသိက္ခာကို တန်ဖိုးထားပြီး ဖြည့်ကျင့်ကြမယ်"

"အဲဒီ မြော်မြင်မှုတွေနဲ့ ပညာရေးစနစ်ကို (မူ)ချထားတာ၊ အဲဒီတော့ ဒီမူစနစ်ဟာ တစ်နိုင်ငံလုံး စာသင်နည်းနဲ့ မတူတော့ဘူးပေါ့၊ အဲဒါကို ပေါ်အောင် သိအောင် ရေးဖို့ မလွယ်ဘူး၊ ဦးဃောတို့လို ငယ်စဉ်က စပြီး ဂန္ဓာရုံမှာ နေပြီး ဒီစနစ်နဲ့လဲ ကိုယ်တိုင် သင်လာခဲ့၊ ဆရာတော်ကြီးနဲ့လဲ ရင်းနှီးစွာ ဆက်ဆံနေထိုင်ခဲ့ဖူးတဲ့သူမျိုးမှ ဖြစ်မှာ"။

**ဘုရားရှင်၏ အလိုသို့သာ လိုက်၍**

အဲသလို ရေးသင့် ရေးထိုက်တဲ့ အနေအထားတွေကို ကိုယ်စီ ကိုယ်င တင်ပြနေကြပါတယ်၊ ဒကာ ဦးထိန်ဝင်းက သူလျှောက်ချင်တာတွေ ထပ်မံ ဖြည့်သွင်းနေပြန်သေးတယ်...။

"တပည့်တော်ကတော့ ဆရာတော်ရဲ့ စိတ်နေစိတ်ထားတွေ ပေါ်အောင် သာသနာ တော်ကို ချစ်တဲ့စိတ်, တရားနဲ့အညီ ကိုယ့်တိုင်းပြည် ကိုယ့်လူမျိုး တိုးတက်စေချင်တဲ့စိတ်,

ဒါတွေလဲ ပေါ်စေချင်တယ်ဘုရား။ ပြီးတော့ ဆရာတော်ကြီးဟာ ကိုယ်ကျိုးမဖက် အများအကျိုးအတွက် သာသနာနှင့်ပတ်သက်တဲ့ အလုပ်တွေ လုပ်သွားပုံ၊ ကိုယ်ကိုယ်တိုင် ခြိုးခြံစွာ ကျင့်သုံးပုံ၊ ကိုယ်ကိုယ်တိုင် ဘုရားအဆုံးအမတွေကို လိုက်နာပုံ၊ ဒါတွေလဲ မလွတ်စေနဲ့ဘုရား။ ဒါမှ ဆရာတော်ကြီးရဲ့ သာသနာဟာ ပုံပေါ်လာမှာ"...

အဲသလို ကိုယ်ဖြစ်စေချင်တဲ့အရာ၊ ကိုယ်ပါစေချင်တဲ့ အချက်အလက်ကလေးတွေ ဝိုင်းပြောနေကြတုန်း အနားမှာ တစ်ချိန်လုံး ပြုံးပြုံးထိုင်နေတဲ့ ဒကာ **ဦးပေါ်ခံက**လဲ ဝင်ပြီး လျှောက်ပါတယ်။

"တပည့်တော်ကတော့ ဆရာတော်ကြီးနဲ့ ရင်းရင်းနှီးနှီး ကြာကြာမတွေ့လိုက်ရဘူးဘုရား။ ချဉ်းကပ်ရတာ နည်းနည်းနောက်ပိုင်းကျသွားတယ်၊ ဒါပေမယ့် ဆရာတော်ကြီးဟာ ပြောတဲ့အတိုင်း လုပ်တယ်၊ လုပ်တဲ့အတိုင်း ပြောတယ်ဆိုတဲ့ ဥဒ္ဒကလေးတွေ သိရပါတယ်၊ ပြီးတော့ ဆရာတော်ကြီးလက်ထက်က သံဃာတွေ ငြိမ်သက်အောင် ဆုံးမတာတွေ၊ ဒကာ ဒကာမတွေရဲ့ အလိုကို မလိုက်ဘဲ ဘုရားရှင်ရဲ့ အလိုသို့သာ လိုက်ပြီး ကျင့်သုံးပုံတွေ၊ ဒါတွေလဲ ပါစေချင်တယ်ဘုရား၊ ကျောင်းတိုက်သံဃာတွေကို ဆွမ်းလာကပ်ကြရင် လိုအပ်တာတွေထက် ပိုပြီး စီမံခွင့် မပေးပုံ၊ ကွမ်းဆေးလက်ဖက် မပါရပုံ၊ 'ဆွမ်းရေး-ကွမ်းရေး' လို့ လင်္ကာချောအောင် အပြောသာရှိပေမယ့် ဘုန်းကြီးတို့ကျောင်းမှာ "ကွမ်းရေး" မပါဘူးလို့ မိန့်ပုံတွေပါ စုံအောင်ပေါ့ဘုရား"...

**ဘုရားရှင်ရဲ့ သာသနာတော်ပါပဲ**

မိမိမှာ အားလုံးပြောသမျှကို အာရုံစိုက်ပြီး မှတ်သားနေရပါတယ်၊ မိမိက တာဝန်ယူပြီး ပုံပေါ်အောင် ရေးရမည့်သူ မဟုတ်ပါလား၊ သူတို့ ပြောကြဆိုကြ အကြံပေးကြတဲ့အထဲ စကားတစ်လုံး မရှင်းအောင် ဖြစ်နေရပါတယ်၊ ဒါကြောင့် ထပ်ပြီး မေးရပြန်ပါတယ်...

"နေစမ်းပါဦး စောစောက ပြောကြတဲ့ အထဲမှာ ဒကာထိန်ဝင်းပြောတဲ့ စကားတစ်လုံး မရှင်းပါဘူး၊ 'ဆရာတော်ကြီးရဲ့ သာသနာ'ဆိုတဲ့ စကားတစ်လုံး ပါတယ်၊ အဲဒါ ဆရာတော်ကြီးရဲ့ သာသနာလား၊ ဘုရားရှင်ရဲ့ သာသနာလား၊ ဘယ်လို ပုံပေါ်အောင် ရေးရမှာလဲ၊ တပည့်တော် ထင်ခဲ့တာက ဘုရားရှင်ရဲ့ သာသနာတော်အတွက် ဆရာတော်ကြီး အလုပ် လုပ်နေတာကို ရေးရမှာလား"လို့...

ပွင့်ပွင့်လင်းလင်း ပြောကြ ဆိုကြ တိုင်ပင်ကြတဲ့ အစည်းဝေးမို့ မိမိကလည်း အဲသည်လိုပဲ ပြန်လှန်မေးလိုက်ပါတယ်၊ အဲဒီအခါမှာတော့ တစ်ချိန်လုံး စကားတစ်လုံးမျှ မပြောဘဲ ငြိမ်လိုက်လာခဲ့တဲ့ နာယကဘုန်းကြီးတစ်ပါးဖြစ်တဲ့ **ဦးအဂ္ဂဝံသ**က...

"ဟုတ်ပါတယ်... ကိုယ်တော် ထင်သလိုပါပဲ၊ ဘုရားရှင်ရဲ့ သာသနာတော်ကြီးအတွက် ဆရာတော်ကြီး အလုပ်လုပ်နေတာကို ရေးရမှာပါပဲ၊ ဒကာထိန်ဝင်းက ကြည်ညိုဇောနဲ့ ခပ်လောလော ပြောမိလို့ 'ဆရာတော်ကြီးရဲ့သာသနာ'ဖြစ်သွားတာပါ၊ အမှန်က ကိုယ်တော် ထင်သလိုပါပဲ၊ ဒကာ ထိန်ဝင်းက သည်လိုပဲ လောလော လောလောနဲ့

ပြောတတ်တယ်၊ ဒါကြောင့် တစ်ခါတလေ သူ့အလုပ်တွေဟာ ရှေ့လောတကြီးနဲ့မို့ အားလွန်ကုန်တော့မယ်လို့တောင် ဖြစ်ဖြစ်ကုန်တယ်၊ စိတ်ထား စေတနာထားကတော့လဲ အကောင်းပါပဲ"...

**ပဓာနခေါင်းဆောင် တာဝန်ယူ၍**

အဲသည်လို ကျေကျေညက်ညက် ဆွေးနွေးတိုင်ပင်ပြီး တာဝန်ယူလိုက်ရသည့်တိုင်အောင် မိမိမှာ မယုံရဲမို့ "တပည့်တော်ချည်းတော့ ပစ်မထားကြပါနဲ့၊ 'အရပ်ကူပါ လူဝိုင်းပါဆိုသလို' နာယကများကလဲ မအားလပ်တဲ့ကြားထဲက အချိန်ယူပြီး ဝိုင်းကူကြပါဦး"လို့ လျှောက်တော့...

"အိုး...ဒါက ကူကြရမှာပေါ့၊ ပဓာနခေါင်းဆောင် အဖြစ်နဲ့သာ ဦးဃောက တာဝန်ယူရမှာ၊ ဒီကိစ္စကြီး ပြီးစီးထမြောက်သွားအောင်တော့ အားလုံးက ဝိုင်းကူ ဆောင်ရွက်ကြရမှာပဲ၊ ဒကာထိန်ဝင်းမှာလည်း စုဆောင်းထားတဲ့ အချက်အလက်တွေ, ဓာတ်ပုံတွေ ရှိတယ်လို့ ပြောတယ်၊ သူက ရည်ရွယ်ချက်ရှိလို့ ဟိုတုန်းကအတိုင်း စုလာခဲ့တာ၊ အဲဒါတွေ ရမှာပေါ့၊ တပည့်တော်တို့ကလဲ စွမ်းအားရှိသမျှ ဝိုင်းကူကြမှာပဲ" ဤသို့လျှင် နာယကချုပ် ဆရာတော် ဦးစန္ဒောဘာသကလည်း အမိန့်ရှိပါတယ်။

ဒါကြောင့် အများတကာ သိကြတဲ့ ဆရာတော်ကြီးနဲ့ ပတ်သက်တာ, ဆရာတော်ကြီးရဲ့ လုပ်ဆောင်ချက် ကြိုးစားချက်တွေ, ဆရာတော်ကြီးရဲ့ စေတနာ, ဆရာတော်ကြီးရဲ့ သဘောထား အားလုံးကို ရအောင် မှတ်ရသားရ စုဆောင်းရပါတော့တယ်၊ သွားလေရာ ဗလာစာအုပ်တစ်အုပ် အမြဲပါရပါတော့တယ်။

တစ်ခါတလေ ခရီးဝေးကိုလည်း ရောက်ရတတ်ပါသေးတယ်၊ ဆရာတော်ကြီးနဲ့ ပတ်သက်တဲ့ ငယ်ရွယ်စဉ်က အချက်အလက်တွေ ရနိုင်မည့် ရဟန်းပုဂ္ဂိုလ်, လူပုဂ္ဂိုလ်များရဲ့ နေရာဌာန အမျိုးမျိုးသို့လည်း ချဉ်းကပ်ရ, စုံစမ်းရ, မေးမြန်းရပါတော့တယ်။

**စုပေါင်း ဆောင်ရွက်ကြခြင်း**

တချို့ နာယကတွေက မှတ်စုတွေ ပေးတယ်၊ တချို့က ဆရာတော်ကြီးရဲ့ ဟောမိန့်ချက်တိတ်ခွေတွေ, တချို့က ပါးစပ်နဲ့ပြောပြကြပါတယ်၊ တချို့က အထောက်အထား သာဓကတွေ, တချို့က ရေးပြီးသား စာမူတွေ ပေးကြပါတယ်၊ အဲဒါတွေ အားလုံးကို စုပြီးတော့မှ မိမိက သင့်တော်ရာ ရွေးစိစစ်, ကောင်းနိုးရာရာကို ယူ, ပုံကြမ်းဖြစ်နေတာတွေကို နုအောင် ပြုပြင်မွမ်းမံ, ပြေပြစ်အောင် ခြယ်မှုန်းရေးသား, အားလုံး အဆင်ပြေအောင် စီစဉ်ရပါတယ်၊ တကယ်ရေးတော့ ဆရာတော်ကြီးရဲ့ အကြောင်းအရာတွေက မကုန်နိုင်အောင် ဖြစ်ပါတယ်၊ အများကြီးပဲ၊ အဲဒီအထဲကမှ သင့်တော်ရာကိုသာ ရွေးပြီး စီစဉ်ထားတာပါ၊ ဒါကြောင့် ဒီစာအုပ်ကြီးဟာ "မိမိတစ်ပါးတည်း ရေးသားတယ်"လို့ မဆိုနိုင်ပါဘူး၊ နာယက ဆရာတော်များ, အနုနာယကများနဲ့ ဆရာတော်ကြီးရဲ့ ရဟန်းတပည့်, လူတပည့် အားလုံး ညီပြီး "စုပေါင်း ဆောင်ရွက် ရေးသားထားတယ်"လို့သာ ဆိုထိုက်ပါတယ်။

**ရေးသားပုံအစီအစဉ် အနေအထား**

ဆရာတော်ကြီးရဲ့ ဘဝကို ဆယ်နှစ်စီ ဆယ်နှစ်စီပိုင်း၍ **"ပထမဆယ်စုနှစ်" "ဒုတိယဆယ်စုနှစ်" "တတိယဆယ်စုနှစ်"** စသည်ဖြင့် အကန့်ခြား စီစဉ်ထားပါတာပါ။ အဲဒီလို အကန့်ခြားပြီးတဲ့နောက် ဆိုင်ရာ ဆယ်စုနှစ်ရဲ့ နောက်ခံခေတ်အခြေအနေကိုလည်း ဖော်ပြထားပါတယ်၊ သူ့ခေတ် အခြေအနေတိုင်းမှာ ဆရာတော်ကြီးနဲ့ ထိတွေ့ရတဲ့ ပုဂ္ဂိုလ်တွေ, ဆရာတော်ကြီးရဲ့ ကြိုးစားလုပ်ဆောင်ချက်တွေ ဖော်ပြထားတာတွေ့ရမှာပါ။

စာအုပ်ကြီးတစ်အုပ်လုံးကို ဖတ်ကြည့်ရင် ဆရာတော်ကြီးဟာ သူ့ဘဝကို သာသနာတော်ထဲ ဘယ်လို နှစ်ထားတယ်၊ သာသနာတော်အပေါ် ဘယ်လို စေတနာထားတယ်၊ သာသနာအတွက် ဘာတွေ လုပ်ခဲ့တယ်၊ တိုင်းပြည်နဲ့ လူမျိုးအတွက် ဘယ်လို သယ်ပိုးခဲ့တယ်ဆိုတာတွေလဲ တွေ့ရပါလိမ့်မယ်၊ နောက်ဆုံးမှာ **"သာသနာတော်ရဲ့ လုပ်သာကောင်းကြီးတစ်ပါး ဖြစ်သည်"**ဆိုတာကိုတော့ မလွဲမသွေ ကြည်ညိုရမှာ အမှန်ပါပဲ။

**စုပေါင်းလျှင် အောင်မြင်ရစမြဲ**

ဒီစာအုပ်ကြီး ရေးရတာ ၂-နှစ် ကြာမှ ပြီးပါတယ်၊ စေတနာတွေ, သဒ္ဓါတရားတွေ, လုံ့လဝီရိယတွေ, သတိ သမာဓိတွေ, အများကြီးနဲ့မို့သာ ပြီးတာပါ၊ ဒီထဲမှာ တနင်္လာနေ့တိုင်း မိမိထံက ရေးပြီးသား စာမူတွေကို လာလာ ယူတဲ့ ဒကာကြီး ဦးပေါ်ဇံရဲ့ ဝီရိယကလည်း ချီးကျူး အံ့သြလောက်စရာပါပဲ။

"တနင်္လာ နေ့တိုင်း လာယူမယ်ဘုရား့"လို့ လျှောက်ထားတဲ့အတိုင်း ၂-နှစ်ပတ်လုံး မိုးစိုစို နေပူပူ, ဗွက်ထူထူ ဖုံထထ အချိန်ကျ ရောက်လာတာပဲ၊ တစ်လမှာ ၄-ကြိမ် မှန်လို့၊ ပြီးတော့ သူ့အလုပ်က စာမူ တွေကို ဒကာထိန်ဝင်းထံ ပို့၊ တစ်ဖန် ဒကာထိန်ဝင်းက လက်နှိပ်စက်ဆရာဆီ ပို့၊ ၅-မူ ရိုက်၊ ၄-မူချန်ထား၊ တစ်မူကို မိမိထံ ပြန်ပို့၊ နာရီလို မှန်နေကြတော့တာပဲ၊ ဒီတော့ မိမိဘက်ကလဲ ဘယ်လောက်ပဲ အလုပ်တွေ ရှုပ်ရှုပ်၊ တနင်္လာနေ့မှာ စာမူ ပေးလိုက်နိုင်အောင် (နေ့စဉ် ပုံမှန် အလုပ်တွေကြားက) ကြိုးစားရပါတော့တယ်၊ ဒီလို မှန်မှန် လာမယူဘဲ တစ်ခါ တစ်ခါမှ လာယူမယ် ဆိုရင် မိမိကလဲ ဒီမျှလောက် ကြိုးစားဖြစ်မှာ မဟုတ်ပါဘူး၊ နောက်တော့မှ သဘောပေါက်သွားတယ်၊ "ဦးထိန်ဝင်းနဲ့ ဦးပေါ်ဇံ တို့က ငါ့ကို စာရေးဖြစ်အောင်လို့ နောက်ကနေ မီးထိုး ပေးနေကြတာ ကိုးလို့။"

ဒကာ **ဦးကြည်တွဲ+ဒေါ်အေးအေး**တို့ကလဲ ဒီစာအုပ်ကြီးအတွက် များစွာ လုံးပမ်းကြပါတယ်၊ သူတို့နှစ်ဦးက ဆရာတော်ကြီးကို ကြည်ညိုခဲ့ကြတဲ့သူတွေဆိုတော့ ဒီစာအုပ်ကြီးအတွက် များစွာ ဆောင်ရွက်ခဲ့ကြပါတယ်၊ သူတို့ ဇနီးမောင်နှံ နှစ်ယောက်လုံးက ဗိသုကာတွေ ဖြစ်ကြတော့ သူတို့ တတ်ကျွမ်းထားတဲ့ ပညာ အသိအမြင်တွေနဲ့ ဒီစာအုပ်ကြီး အဆင်အပြင် လှအောင်, ဓာတ်ပုံတွေ အနေအထား မှန်ကန်အောင်ဆိုပြီး ဒကာဦးထိန်ဝင်းနဲ့ တိုင်ပင်စီစဉ်ကြတာပဲ။

ပြီးတော့ ဒီစာအုပ်ကြီး အခုလို ပေါ်ပေါက်လာရတာကလဲ ဆရာတော်ကြီးကို ကြည်ညိုကြတဲ့ ဒကာ ဒကာမတွေရဲ့ ငွေအား လူအားတွေနဲ့ ဝိုင်းဝန်း ကူညီမှုတွေလဲ အများကြီး ပါတာပေါ့။

**ကြိုတင်တောင်းပန်ခြင်း** အခုလောက် လုံလဝီရိယတွေနဲ့ ...စာရေးသူရော, ပြင်ဆင်သူတွေပါ ဝိုင်းဝန်း ကြိုးပမ်းထားကြပေမယ့် ချွတ်ယွင်းချက်ဆိုတာကတော့ ကင်းနိုင်ကြမည် မဟုတ်ဘူးပေါ့၊ သတိ တိမ်းပါးလို့ အနည်းနဲ့ အများတော့ ရှိတတ်စမြဲပါပဲ။

ချွတ်ယွင်းချက်များ တွေ့ခဲ့ပါရင် သည်းခံ ဖတ်ရှုကြပါလို့၊... နောက်တစ်ခုက သက်ဆိုင်ရာ အကြောင်းအရာများကို ဖော်ပြတဲ့ အခါမှာ မည်သူ့ကို ထိခိုက်စေ ဆိုတဲ့ စေတနာ မပါရိုး အမှန်ပါ၊ မလွတ်မကင်းများ ဖြစ်သွားရင်လည်း သည်းခံကြပါလို့။...

ပြီးတော့ စာရေးသူအနေနဲ့ တောင်းပန်ချင်တာတစ်ခု ရှိပါသေးတယ်၊ မိမိတို့ရဲ့ ကျေးဇူးရှင် ဆရာတော်ဘုရားကြီး အကြောင်းကို ရေးတဲ့နေရာမှာ မဝံ့မရဲ အမြဲတမ်းလို ဖြစ်ရ, လက်တွန့်ရ ပါတယ်။

ဘာလို့လဲဆိုတော့... ဆရာတော်ဘုရားကြီးရဲ့ ဘွဲ့နာမည်ကို မခေါ်ရဲလို့ပါပဲ၊ မိမိတို့အနေ, ဒကာ ဒကာမတွေ အနေနဲ့ ဆရာတော်ဘုရားကြီးကို ဘွဲ့ကို မခေါ်ရဲပေမယ့် မြန်မာပြည် တစ်နံတစ် လျားနဲ့ တိုင်းပြည် ကမ္ဘာ အနှံ့အပြားက သိနေကြတာက **"အရှင်ဇနကာဘိဝံသ"**ဆိုတဲ့ နာမည်ပဲ။

"အမရပူရဆရာတော်" "တောင်မြို့ဆရာတော်" "မဟာဂန္ဓာရုံဆရာတော်"လို့ အသိ နည်းကြ ပါတယ်၊ ဒါ့ကြောင့် အသိများတဲ့, အများသိ ဖြစ်နေတဲ့ **"အရှင်ဇနကာဘိဝံသ"**ဆိုတဲ့ နာမည်နဲ့ပဲ သုံးသပ်၍ ရေးလိုက်ရပါတယ်။

ရိုင်းတယ်လို့ အပြစ်မတင်သင့်ပါ၊ ဒါကိုလည်း "ခွင့်လွှတ်ကြပါ"လို့ တောင်းပန်ရပါတယ်၊ ဆရာတော်ဘုရားကြီးကိုလည်း ဒီနေရာကပဲ နေပြီး ရိုသေစွာ ကန်တော့လိုက်ပါတယ်၊ ဒီစာအုပ် ကြီးကို ဝိုင်းဝန်း ဖော်ထုတ်ခြင်းဖြင့်လည်း ဆရာတော်ဘုရားကြီးအား တလေးတစားနဲ့ အားလုံးက ပူဇော်ကြခြင်းပါပဲလို့။...

**အရှင်ယောသိတ**<br>
**သာသနဓဇသီရိပဝရ ဓမ္မာစရိယ**<br>
**သံဃာ့တဏ္ဍသိုလ်**<br>
**ရေကူး, ကမ္ဘာအေး**<br>
**ရန်ကုန်မြို့**<br>
**၁၃၄၅-ခုနှစ် တပို့တွဲလကွယ်နေ့**

ဆရာတော် အရှင်ဇနကာဘိဝံသ၏
တစ်ဘဝ. သာသနာ

ပါစကော ပါဒကော စေဝ၊
နိစ္စံ ဂန္ထဿ ကာရကော။
ပေါသကော သာသနဿ၊
ပိဋကတ္တယ ပါဠိစေဝ။ ။

"အရှင်ဇနကာဘိဝံသ" ဟူ၍ အများက သိကြသော အမရပူရ မဟာဂန္ဓာရုံ ဆရာတော် မထေရ်မြတ်သည်၊ ပိဋကတ် ထိုးကျက်စား၊ တစ်ဘဝလုံး စိတ်ကိုနှစ်ထား၍၊ များစွာသော တပည့်တပန်း၊ ရဟန်းသံဃာ အပေါင်းတို့အား၊ နေ့စဉ်မပြတ်၊ ကျမ်းဂန်စာပေ၊ ပို့ချပေးတော်မူလေ၏။

ထို့ပြင်တစ်ဖန် - နံနက်ခင်း ကြဝါ၃ တို့ဖြင့်လည်း၊ လာရေ သတိပေး၍၊ ယဉ်ကျေးကောင်း ဆုံးမတော်မူလေ၏၊ ထို့မှတစ်ဆင့်- အမြဲတမ်းပင်၊ ရဟန်းပျိုလူ၊ ပြည်သူအတွက်၊ နှစ်သက်စဖွယ်၊ အမြင်ကျယ်စေသော၊ စာပေကျမ်းမြတ်၊ စာဥပုဒ်တို့ကိုလည်း၊ အထပ်ထပ် ပြုစုပေးတော်မူပေသည်။

ထို့မှတစ်ပါး - ဘုရားမြတ်စွာ၊ သာသနာအတွက်၊ ဂုဏ်ကြီး ကြို့ကြို့၊ ပိဋက သန့်၍၊ တည်တံ့ဖို့အရေး၊ သာသနာရေး ရှင်ငယ် ရဟန်းငယ်ကလေးတို့အား၊ ကျွေးမွေးစောင့်ရှောက်၊ ချီးမြှောက်တော်မူသည့် လုပ်ငန်းကိုလည်း၊ အမြဲတမ်းပြု လုပ်တော်မူပေသည်။ ။

အရှင်ဃောသိတ
သာသနဓဇ၊ သိရီပဝရ ဓမ္မာစရိယ



"ဆရာတော် အရှင်နေကာဘိဝံသကို
မျှလွန်တော်မမူမီ ၂-လခန့်က ဖူးတွေ့ရစဉ်"

## အစားထိုးမရသော ဆုံးရှုံးမှုကြီး

**"မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသ မထေရ်မြတ်ကြီး ပျံလွန်တော်မူခြင်းဟာ ဓမ္မ ငါးဖြာ အမြွာရှိတဲ့ သာသနာတော်သစ်ပင်ကြီးမှ (ပင်စည်ခွဆုံကနေပြီး) အရေးပါလှသည့် အကိုင်း ကြီးတစ်ကိုင်း ပဲ့ထွက် ကျိုးကျသွားသလိုပါပဲ၊ သာသနာတော်ကြီးအတွက် များစွာ နစ်နာ ဆုံးရှုံး မှုကြီးတစ်ရပ် ဖြစ်ရပါတယ်"**

အထက်ပါ စကားရပ်ကား ... အမရပူရ (တောင်မြို့) မဟာဂန္ဓာရုံဆရာတော်ဘုရားကြီး အရှင်ဇနကာဘိဝံသ ပျံလွန်တော်မူစဉ်အခါက **တိပိဋကဓရဓမ္မဘဏ္ဍာဂါရိက**မင်းကွန်းဆရာတော် ဘုရားကြီး **အရှင်ဝိစိတ္တသာရာဘိဝံသ** ကြွလာ ဖူးမြော်ရင်း ရင်တွင်းအပြည့် မချိတင်ကဲဝမ်းနည်း လှစွာ မိန့်ဆိုတော်မူချက်သာတည်း။

ဤနေရာတွင် တိပိဋကဓရဓမ္မဘဏ္ဍာဂါရိက ဆရာတော်ကြီးက "သာသနာတော်သစ်ပင်ကြီးမှ အရေးပါလှသည့် အကိုင်းကြီးတစ်ကိုင်း ပဲ့ထွက် ကျိုးကျသွားရသလိုပါပဲ"ဟူ၍ ဆိုရေးဆိုလျောက် ဆိုရလောက်အောင် အဘယ့်ကြောင့် မိန့်ဆိုတော် မူသွားခဲ့သည်ကို တအုံ့နွေးနွေး သောကဖြင့် ရစ် ထွေး၍ ပူဆွေးနေရသော မိမိတို့အဖို့ မပီမပြင် မထင်ဝိုးဝါး အမှန်ပင် ထွေပြားခဲ့ရပါသည်။

စကား၏ အတိမ်အနက် ဗျူပွတ်ထွက်သမျှကို အချက်ကျအောင်ပင် ဖွေနှည်၍ မရနိုင်ခဲ့သလို ဖြစ်ပါ၏၊ ဆင်ခြင်စဉ်းစား၍လည်း ဝိုးတဝါးမျှသာ ဖြစ်ခဲ့ရပါသည်၊ တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဆရာတော်ကြီးက အဘယ့်ကြောင့် ဤသို့ဤနှယ် တန်ဆာ ခြယ်၍ ဖွယ်ရာ ဖွယ်ခင်း မိန့်တော် ဆိုတော်မူခြင်းပေနည်း။?

## သောကကိုယ်စီ ရင်ဝယ်ပိုက်၍

ထိုစဉ် ထိုအခါ ထိုရက်အတွင်းကမူ အနယ် နယ် အရပ်ရပ်မှ ရဟန်း ရှင် လူများ၊ သီလရှင် ပရိသတ်များ၊ ဒါယကာ ဒါယိကာမများ၊ ကြီးကြီး ငယ်ငယ် ရွယ်ရွယ်လတ်လတ် ပရိသတ်အထွေ ထွေ တွက်ရေမျှားစွာ သွားလာ၍ လှုပ်လှုပ်ရွရွ ဖြင့် အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်ကြီး အတွင်း၌ ထွက်ဝင် ကူးသန်းနေကြပါသည်။

"ဆရာတော်ဘုရားကြီး အရှင်ဇနကာဘိဝံသ ဘဝနတ်နန်း စံမြန်းပြီ"ဟု ကြားသိကြ၍ လာကြ ခြင်းဖြစ်၏၊ ရိုသေစွာ ဦးချ၍ ပူဇော်ကန်တော့ ကြ၏၊ နှမြောတသကြသည်၊ စုတ်သတ်ကြသည်၊ သက်ပြင်းချကြသည်၊ ပူလောင်တင်းကြပ် ဆို့နင့် နေသော ရင်တွင်းမှ သောကကိုလည်း ဖွင့်ဟကြ သည်၊ ဆရာတော်ဘုရားကြီး ပျံလွန်တော်မူသည့် အတွက် သာသနာရေးနှင့် စပ်၍လည်းကောင်း၊ ကျောင်းတိုက်ကြီးနှင့် စပ်၍လည်းကောင်း၊ ဆရာ တော်နှင့်စပ်၍လည်းကောင်း မိမိတို့ ထင်မြင်ချက် ကို ပြနိုင်ဖို့ရာ စာအုပ်အရှည်ထူထူကြီး သုံးအုပ်ကို စားပွဲများပေါ်မှာ တင်ထားသည်၊ ရဟန်းသံဃာ များ၊ သီလရှင်များ၊ အစိုးရကျောင်းအသီးသီးမှ ဆရာ ဆရာမများ၊ ကျောင်းသူ ကျောင်းသားများ၊ သတင်းစာဆရာ စာရေးဆရာများ၊ ကာယဉာဏ လုပ်သားများ၊ တပ်မတော်သားများ၊ အရပ်သား ဒါယကာ ဒါယိကာမများ အားလုံးပင် အသီး အသီး ကိုယ်စီကိုယ်င ရင်တွင်း၌ ရှိသမျှ ခံစားရ ချက်တို့ကို မှတ်တမ်းတင်၍ သွားကြသည်။

အချို့က "ဆရာတော်ဘုရားကြီးပျံလွန်တော်မူ သည့်အတွက် မြင်းမိုရ်တောင်ကြီးပြိုလဲသွားသလို ထင်ရကြောင်း၊ အချို့က "အစားထိုး မရသော

ဆုံးရှုံးမှုကြီး" အချို့ကလည်း "ဆရာတော်ဘုရားကြီး မရှိတာဟာ မှောင်ကြီး ကျသွားသလိုပဲ" အချို့က... "အလင်းရောင်ပေးသော မီးရှူးတန်ဆောင်ကြီး ကွယ်ပျောက်သွားပါပြီ" အချို့က "မျက်စိနှစ်လုံး ကွယ်သွားသလိုထင်ရပါကြောင်း" အချို့က "သည်းအူပြတ်မျှ ခံစားရ၍ သောကရောက်သည်, ဆောက်တည်ရာ မရ ဖြစ်ရပါကြောင်း" အချို့က "ကြေကွဲဝမ်းနည်း, သည်းသည့် မျက်ရည်, နီသည့်မျက်လုံး, နုံ့သည့်ကိုယ်လက်, တွေ့ပါလျက်လည်း, ဖူးလျက်မဝ, တလျက်မပြေ, အဖြေခက်စွ" စသည်ဖြင့် ဆို့နင့်သော ရင်တွင်းဝေဒနာတို့ကို ဖော်ပြကြသည်။



**"မသေပါလို, ငါကဆိုလည်း, ငါဆိုမရ, သေကြရ, အနတ္တ ခန္ဓာကိုယ်"**

**ပရိဒေဝ သောကဆူဝေ အထွေထွေ**

တပ်မတော်သားတို့က မူကား... "ဆရာတော်ကြီး၏ ဇီဝိန်ကို အသေညှဉ်းသည့် သေမင်းကို လက်နက်ဖြင့် အပြုတ်တိုက်ချင်သည်"ဟု ကြုံးဝါးကြ၏၊ အချို့ကလည်း "အမရပူရမြို့ဆိုတာ မသေတဲ့မြို့ပဲ, မသေတဲ့မြို့မှာနေတဲ့ တို့အရှင်ကို ဘယ်သူက ဘယ်သို့လာ၍ ဘယ့်ကြောင့် မရှင်အောင် တမင်ညှဉ်းဆဲရသလဲ" ဟု ရင်ထဲမှာ ရှိသမျှ ဖွင့်ဆိုကြ၏၊ အချို့ကမူ "ဦးခေါင်းတော်မှ ခြေဖဝါးတိုင်အောင်, ခြေဖဝါးတော်မှ ဦးခေါင်းတိုင်အောင်, လူးလာ တုံ့ခတ်, အထပ်ထပ် အပြန်ပြန် ဖူးဖန်များလည်း အားမရခဲ့" အချို့က "သာသနာတော်အတွက် ဆရာတော်ဘုရားထက် ပို၍ ကြည်ညိုရသူ အားထားရသူ မရှိသေးပါ" အချို့က "သာသနာပြုခရီး ရေကြောင်းတွင် လှေလောင်းဖြင့် ဆန်တက်ရာ လှေလှော်ရင်းတက်တိုးသလို ဖြစ်ရပေ့ါ, ကျန်ရစ်သော ပုဂ္ဂိုလ်များက ဆက်လက် လှော်နိုင်ကြပါစေ"ဟု ဆန္ဒပြုထားကြ၏၊ အချို့ကလည်း "ဝမ်းနည်း၍ ငိုပွဲဆင်နေမည့်အစား ဆရာတော်ဘုရားကြီး ချမှတ်ခဲ့သော မူဝါဒလမ်းစဉ်တို့ကို ဆက်လက် ကိုင်တွယ်ကျင့်သုံးခြင်းဖြင့် ကျေးဇူးဆပ်သင့်သည်"စသည်ဖြင့် ထင်မြင်ချက်တို့ကို ဆိုကြ၏၊ အချို့က "သေခြင်းတရား၏ ဆည်းဆာပိုင်းသို့ အရောက်စောသူ ဖြစ်သွား၍ သာသနာတော်အတွက် ပြောမပြတတ်အောင် နှမြောတသ ကြေကွဲရပါကြောင်း" စသည် စသည်ဖြင့် ဆုံးရှုံး နစ်နာမှုကြီးအတွက် ကြေကွဲမှုအထွေထွေ အရာရာ ဝမ်းနည်းမှု ကုဋေကုဋာတို့ကို ရင်တွင်းရှိသမျှ ဖွင့်ဟ၍ စာအုပ်ကြီးများအတွင်း၌ မှတ်တမ်းတင်ခဲ့ကြပါသည်။

ထိုသို့ မှတ်တမ်းတင်ကြသည့် အထဲတွင်... တိပိဋကဓရဓမ္မဘဏ္ဍာဂါရိက ဆရာတော်ဘုရားကြီးအရှင်ဝိစိတ္တသာရာဘိဝံသကား ဆုံးရှုံးနစ်နာမှုကြီးအတွက် အစ၌ ဖော်ပြထားသည့်အတိုင်း မှတ်ချက်ပေး၍ နှုတ်တော်မှ ဖွင့်ဟကာ ပီသစွာ မှတ်တမ်းတင်တော်မူခဲ့ပါသည်၊ ဘယ်သို့ ဘယ့်နှယ် တန်ဆာခြယ်၍ မိန့်ဆိုတော်မူခဲ့ပါသနည်း?။



## ဂင်္ဂါမြစ်ကမ်းနားက မိန့်ခွန်းတော်ပမာ

**အကိုင်းကြီးနှစ်ခု ကျိုးကျသွားသလို**

* သက်တော်အားဖြင့် ရှစ်ဆယ် ပြည့်လုလု၊ အရွယ်တော်အားဖြင့် ဝင်းမှည့်နေပြီး ဖြစ်သော ရှင်တော် ဗုဒ္ဓသည် နောက်လိုက် နောက်ပါ သံဃာတော်များစွာနှင့် ဒေသစာရီကြွချီတော်မူနေရာ ဝဇ္ဇီတိုင်းအတွင်းက **ဥက္ကစေလ**မြို့ ဂင်္ဂါမြစ်ကမ်းနားသို့ ရောက်တော်မူလေ၏။

အချိန်ကား လက်ယာတော်ရံ အရှင်သာရိပုတ္တရာနှင့် လက်ဝဲတော်ရံ အရှင်မောဂ္ဂလာန်တို့ ပရိနိဗ္ဗာန် စံပြီးခါစ အချိန်ကာလ ဖြစ်သည်၊ တစ်ပါးနှင့် တစ်ပါးလည်း မကွာခြားလှပေ၊ တစ်ပါးက တန်ဆောင်မုန်းလပြည့်နေ့၊ တစ်ပါးက တန်ဆောင်မုန်းလကွယ်နေ့၊ ရှေ့ဆင့် နောက်ဆင့်လို ဖြစ်သည်။

သံဃာတော်များမှာ ဘုရားကိုယ်တော်မြတ် ရှေ့ဆောင်တော်မူနေ၍သာ ဒေသစာရီခရီးကို လိုက်ပါခဲ့ကြရသော်လည်း အချို့က မျက်နှာများ မကြည်သာကြ၊ ညှိုးလျက် ရော်လျက်ရှိကြသည်၊ လက်ဝဲရံ လက်ယာရံ အဂ္ဂသာဝကကြီးနှစ်ပါး မရှိတော့ပြီဖြစ်၍ နှမြောတသ အားငယ်နေသလို ဖြစ်ကြပါလိမ့်မည်၊ ရင်တွင်းမှာလည်း ဟာတိဟာတာ, ပရိသတ်မှာလည်း ဟာလာဟင်းလင်းကြီးကဲ့သို့ ဖြစ်နေကြ၏၊ မှန်ပါသည်၊ ဤအရှင်မြတ်ကြီးနှစ်ပါးသည် သာသနာပြုတော်မူရာတွင် အတုမဲ့ထိပ်ခေါင်တင် ရှင်တော်ဗုဒ္ဓ၏လက်ရုံးကြီးနှစ်ဆူဖြစ်၍ အလွန်အားထားရသော သာဝကကြီးများ ဖြစ်ကြပါ၏၊ ထိုအရှင်မြတ်ကြီးနှစ်ပါးရှိသော အရပ်သည် ရှင်တော်ဗုဒ္ဓ ကိုယ်တော်တိုင်ရှိနေသော အရပ်ကဲ့သို့ ဖြစ်သည်၊ စိတ်ချရ၏၊ ကြောင့်ကြစရာမလို၊ ထို့ကြောင့် ရှင်တော်ဗုဒ္ဓက "သာရိပုတ္တရာ, မောဂ္ဂလာန်တို့...သင်တို့ရှိသော အရပ်ဒေသသည် ငါဘုရား ရှိနေသည်နှင့် တူ၏" ဟူ၍ပင် မိန့်တော်မူရသည်။

---

* မဟာဝဂ္ဂသံယုတ် ပါဠိတော် ၁၄၁၊ ဥက္ကစေလသုတ်။

ထိုမျှလောက် အားထားရသော အဂ္ဂသာဝက ကြီးများက ဗုဒ္ဓဘုရား၏အလျှင် ပရိနိဗ္ဗာန်စံဝင်တော်မူကုန်ကြသောအခါ သာသနာတော်ကြီး အတွက် အဖက်ဖက်မှ ဆုံးရှုံးနစ်နာမှုများ ကြီးမားစွာ ဖြစ်ကြရသည်၊ ထို့ကြောင့် ရှင်တော်ဗုဒ္ဓက ဥပမာဖြင့် မိန့်တော်မူ၏။

"ရဟန်းတို့ အနှစ်သာရပြည့်ဝသော သစ်ပင်ကြီးတစ်ပင်မှ အကိုင်းကြီးနှစ်ခု ကျိုးကျကုန်ဘိသို့ သာရိပုတ္တရာ, မောဂ္ဂလာန်တို့ ပရိနိဗ္ဗာန်စံကုန်ကြခြင်းသည် အနှစ်သာရပြည့်ဝသော သာသနာတော်သစ်ပင်ကြီးမှ အကိုင်းကြီးနှစ်ခု ကျိုးကျသွားသည်နှင့် တူလှချေ၏" *

## ထိုဥပမာထား အလားတူစွာ



ဆရာတော်ရေးသားပြုစုခဲ့သောစာအုပ်များ

ထိုဥပမာကို နမူနာယူ၍ တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဆရာတော်ကြီးကလည်း ဤသို့ ဤနှယ် တန်ဆာခြယ်လျက် အရှင်ဇနကာဘိဝံသ ဆရာတော်ဘုရားကြီး ပျံလွန်တော်မူသည့် အတွက် သာသနာတော်ဘက်မှာ အားပျက်ဖွယ်ရာ အားလျော့ဖွယ်ရာ အားငယ်ဖွယ်ရာတို့ကို မြင်တော်မူသဖြင့် ရင်နင့်သည်းစွာ မိန့်ဆိုတော်မူခြင်း ဖြစ်ပါလိမ့်မည်၊ ဤတိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဆရာတော်ကြီးသည် ခြောက်ကြိမ်မြောက် ဆဋ္ဌသင်္ဂါယနာတင်ပွဲကြီး၌ အရှင်ဥပါလိတို့နေရာ, အရှင်အာနန္ဒာတို့ နေရာ၌ နေရ၍ ပိဋကတ်သုံးဖြာ ဓမ္မက္ခန္ဓာတို့ကို ဖြေကြားရသော "ဝိသဇ္ဇက"ဆရာတော်ကြီးတစ်ပါးဖြစ်၏၊ ထိုသို့ ဖြစ်သည့်အားလျော်စွာ သာသနာတော်အရေးဆိုလျှင် ဘဝင်မအေးနိုင်သော ဆရာတော်ကြီးပင်ဖြစ်သည်၊ ထို့ကြောင့်လည်း သာသနာတော်ဘက်က ကြည့်၍ ဤကဲ့သို့ မိန့်မြွက်ခြင်း ဖြစ်ပါလိမ့်မည်၊ မှန်ပါ၏၊ အရှင်ဇနကာဘိဝံသ ဆရာတော်ဘုရားကြီးကလည်း ဤသို့ပင် နှိုင်းစာရလောက်အောင် ယခုအခါ သာသနာတော်ကြီး အတွက် အားကိုးရသော ပုဂ္ဂိုလ်ကြီးတစ်ပါး ဖြစ်နေပါပြီ၊ ဤသို့ပင်လျှင် အများက အသိအမှတ်ပြုနေကြပါပြီ၊ သာသနာတော်လောက၌ "အရှင်ဇနကာဘိဝံသ"ဆိုလျှင် မသိသူပင် မရှိတော့ပါ၊ အားလုံးကပင် သိနေကြပါပြီ၊ အဝေးကမြင်နိုင်သော တောင်ထွတ်ကြီးပမာ သာသနာ၌ ထင်ရှားနေပါပြီ။

* ဘုရားသာသနာတွင်းရှိ များပြားလှသော သံဃာတော်အစုအပေါင်းသည် အမြင့် ယူဇနာတစ်ရာရှိသော မဟာဇမ္ဗူသပြေပင်ကြီးနှင့် တူ၏၊ ပင်စည်ခွဆုံမှ တောင်ဘက်ထွက်သော အရှည် ယူဇနာငါးဆယ်ရှိသည့် ကြီးမားလှသောအကိုင်းကြီးသည် အရှင်သာရိပုတ္တရာနှင့်တူ၏၊ မြောက်ဘက်ထွက်သောအကိုင်းကြီးသည် အရှင်မောဂ္ဂလာန်နှင့်တူ၏ဟု အဋ္ဌကထာက နှိုင်းပြထားသည်။ (သံ-၃၊ ၄၊ နာလန္ဒဝဂ်၊ စေတုဋ္ဌ။)

အဘယ်ကြောင့်ပါနည်း? သာသနာတော်ကြီးအတွက် အလုပ်များစွာ လုပ်၍ သာသနာတော်ကြီးအတွက် ဂုဏ်ကျက်သရေတွေ များစွာ ဆောင်၍ သွားသောကြောင့်ဟု ဖြေရပါမည်၊ ဟုတ်ပါသည်၊ ဆရာတော် အရှင်ဇနကာဘိဝံသကား...အမျိုးကို ချစ်၏, ဘာသာကို ခင်၏, သာသနာကို မြတ်နိုး၏၊ ထိုသို့ ချစ်မြတ်နိုးသည့် အလျောက် အမျိုး, ဘာသာ, သာသနာ၏ တိုးတက်ရာ တိုးတက်ကြောင်း အလုပ်တွေကို မနားမနေ တစ်ဘဝလုံး ဆောင်ရွက်သွားခဲ့ပါပေသည်။ ဆရာတော် အရှင်ဇနကာဘိဝံသသည် တိုင်းပြည်အတွက်,လူမျိုးအတွက်,သာသနာတော်အတွက် အဖက်ဖက်မှာ အကျိုးများစေနိုင်သော အလုပ်တို့ကို သူ့ဘဝနှင့် အညီအမျှ ပြုလုပ်ဆောင်ရွက်သွားတော်မူခဲ့ပါပေ၏။

လူ့ဘက်ရှင့်ဘက် နှစ်မျိုးလုံးအတွက် နှစ်သက်စဖွယ် ကျမ်းစာများကို ရေးသားပြုစုတော်မူခဲ့ပါသည်၊ ကိုယ်တိုင်လည်း ကျင့်သုံး၍ အများအတွက်လည်း ညွှန်ပြတော်မူခဲ့ပါသည်၊ အထူးအားဖြင့် ပစ္စက္ခသာသနာတော်အတွက် ဘုရားနှစ်သက်တော်မူမည့် ပုံဟန်အသွင်ကို ပီပီပြင်ပြင် ဖော်ဆောင်သွားနိုင်ခဲ့ပေ၏၊ အနာဂတ်သာသနာအတွက်လည်း လှမ်းမျှော်ညွှန်ကြားနိုင်ခဲ့ပေသည်၊ ထို့ကြောင့်လည်း သာသနာတော်သစ်ပင်ကြီးမှ အရေးပါသော အကိုင်းကြီးတစ်ကိုင်းကဲ့သို့ ဖြစ်၍ နေပါပြီ၊ သို့ဖြစ်၍လည်း တိပိဋကရေဆရာတော်ကြီးက "အရေးပါသော အကိုင်းကြီးတစ်ကိုင်း ပဲ့ထွက် ကျိုးကျသွားရသလို"ဟု ဥပမာတင်စားခြင်း ဖြစ်ပါလိမ့်မည်။

## အလုပ်က ဘဝကို မြှင့်တင်ပေးသည်

ဤသို့ ဥပမာတင်စားခြင်းခံရသော ဆရာတော်ဘုရားကြီးသည် မြင့်ရှည်စွာသော ကာလမှ စ၍ မေတ္တာကို အရင်းခံထားပြီး တိုင်းပြည်အတွက်, လူမျိုးအတွက်,သာသနာတော်အတွက် တက်တက်ကြွကြွ နှစ်လများစွာ တစ်ဖြောင့်တည်း ဆောင်ရွက်လာသောအခါ ရဟန်းရှင်လူ ပြည်သူအများက ဆရာတော် အရှင်ဇနကာဘိဝံသ၏ သဘောထားကို သိလာကြ၏၊ ဆရာတော့်အပေါ်တွင် မေတ္တာသက်ဝင် ချစ်ခင် ကြည်ညိုကြတော့သည်၊ ဤနည်း ဤဟန် အပြန် အတုံ့ မေတ္တာကို ခံယူကြကာ ဆရာတော့် အပေါ်မှာ ရင်းနှီး ကျွမ်းဝင်လာကြ, ယုံကြည်စိတ်ချလာ ကြတော့၏၊ ထို့ကြောင့်လည်း သာသနာရေးနှင့် ပတ်သက်၍ အားအကိုးရဆုံး ပုဂ္ဂိုလ်များကို လက်ချိုးရေတွက်ကြပါလျှင် အရှင်ဇနကာဘိဝံသ ဆရာတော်မှာ အဦးဆုံး ချိုးသော လက်ထဲတွင် ပါဝင်သွားရပါလေသည်၊ ဤသည်ကား သူ့အလုပ်ကသူ့ဘဝကိုကြွအောင်မြင့်အောင် မြှင့်တင်ပေးခြင်းပေတည်း၊ ဤသို့သော အဆင့်သို့ မြင့်အောင် ရောက်လာရခြင်းကလည်း နှယ်နှယ် ကြိုးစားရုံမျှဖြင့် ရောက်လာရသည် မဟုတ်ပါ၊ တစ်နေ့ တစ်ရက် တစ်လ တစ်နှစ်မျှ ကြိုးစားသော ဝီရိယမျိုးဖြင့် ရောက်ရသည်လည်း မဟုတ်ပါ။

"သာယာသောရောမမြို့ကြီးကို တစ်နေ့တည်း အပြီးတည်ဆောက်ထားခြင်း မဟုတ်"ဟူသော စကားပုံကဲ့သို့ ဤဘဝကိုလည်း တစ်နေ့တည်း တည်ဆောက်ထားခြင်း မဟုတ်ပါ၊ နေ့ပေါင်း ရက်ပေါင်း လပေါင်း နှစ်ပေါင်းများစွာ ရင်း၍ တည်ဆောက်ထားရခြင်းသာ ဖြစ်ပါသည်။

**မေတ္တာကို ရှေ့ထား၍ စေတနာကို အရင်းခံ** ပြီးလျှင် **ဝီရိယကို အဖော်ပြုကာ ပညာကို ဦးစီး** စေလျက် အရှင်မြတ်ကြီး၏ နေ့ပေါင်း ရက်ပေါင်း လပေါင်း နှစ်ပေါင်းများစွာ ဆောင်ရွက်ချက်တို့ မှာ စိတ်ဝင်စားစရာ အလွန်ကောင်းလှပါသည်၊ ထိုအကြောင်းအရာ ထိုအချက်အလက်တို့ကို ဖော်ပြထားသော သူ့ဘဝ သမိုင်းကြောင်း စာမျက်နှာတို့ကို တစ်ရွက်ချင်း တစ်ရွက်ချင်း လှန်၍ ကြည့်မည်ဆိုလျှင်......

## ပထမဆယ်စုနှစ်
## ၁၂၆၁-၁၂၇၁



ဆရာတော် အရှင်ဇနကာဘိဝံသ ငယ်စဉ်က ပညာသင်ကြားခဲ့သော
သရိုင်ရွာ ပင်းကျောင်းကြီးရှေ့၌ ဖြောင်းမြဆရာတော်, ဆရာတော် အရှင်ဇနကာဘိဝံသနှင့်
သံဃာတော်များအား အမှတ်တရ ဖူးတွေ့ရစဉ်။

အရှင်အနုရုဒ္ဓါမဟာထေရ်၏
အဘိဓမ္မတ္ထသင်္ဂဟအဋ္ဌကထာကို
ခက်ဆစ်အဓိပ္ပါယ် ရှင်းလင်းစွာ တန်ဆာဆင်၍
အရှင် ဇနကာဘိဝံသ
စီရင်အပ်သော

# သင်္ဂြိုဟ်ဘာသာဋီကာ

[ အခြေပြုသင်္ဂြိုဟ်လာ ပါဠိစကားလုံး၏ အဓိပ္ပါယ်နှင့် သရုပ်ကျေညက်စေပြီး [illegible] လေ့လာရန်. ဆိုင်ရာကျမ်းများ၏ လက်-ကြီး-ကျော်အထွက် [illegible] ]

[illegible] [illegible] ၂၀၀၀ [illegible]

နယူးဘားမားပိဋကပုံနှိပ်တိုက်
လက်ပန်ကုန်း, မန္တလေး။

---

အရှင်အနုရုဒ္ဓါမဟာထေရ်၏
အဘိဓမ္မတ္ထသင်္ဂဟအဋ္ဌကထာကို
ခက်ဆစ်အဓိပ္ပါယ် ရှင်းလင်းစွာ တန်ဆာဆင်၍
အရှင်ဇနကာဘိဝံသ
ရေးသားစီရင်အပ်သော

# သင်္ဂြိုဟ်ဘာသာဋီကာ

[ အခြေပြုသင်္ဂြိုဟ်လာ ပါဠိစကားလုံး၏ အဓိပ္ပါယ်နှင့် သရုပ်ကျေညက်စေပြီး [illegible] လေ့လာရန်. ဆိုင်ရာကျမ်းများ၏ လက်-ကြီး-ကျော်အထွက် [illegible] ]

၁၂၉၉-ခု [illegible]

[illegible] ပုံနှိပ်တိုက်, [illegible], မန္တလေးမြို့

---

အရှင် ဇနကာဘိဝံသ
၏
ပဌမ ကျမ်းစာ

# ရတနာ့ဂုဏ်ရည်

[ပဌမ ရွှေကျင်ဆရာတော်ဘုရားကြီး၏ [illegible] ဘုရားနှိုးပါသည်]

၁၃၂၅-ခု၊ သီတင်းကျွတ်လ

နယူးဘားမား ပိဋကပုံနှိပ်တိုက်
အမရပူရမြို့

---

အရှင်ဇနကာဘိဝံသ
၏
ပဌမကျမ်းစာ

# ဝီထိနှင့်သုံးချက်စု

ဘာသာဋီကာ

သင်္ဂြိုဟ်ဘာသာဋီကာ ဝိထိပိုင်း-ပန္နည်းပိုင်းအခန်း၌
တွဲဘက်လေ့လာလျှင် သာ၍သင့်မြတ်ဘွယ်ရှိသည်။

၁၃၁၄-ခုနှစ်၊ ၅-ကျပ်၊

ရတနာဒီပ ( ပိဋကတ် ) ပုံနှိပ်တိုက်၊
မန္တလေးမြို့၊




ဆရာတော်သည် ဤပုံပါကျမ်းစာများကဲ့သို့
အဖိုးမဖြတ်နိုင်သော ကျမ်းပေါင်းများစွာကို
ရေးသားပြုစုတော်မူခဲ့ပါသည်။

ဘုရားဟောပိဋကတ်တွေထဲမှာ
ယဉ်ကျေးမှုတွေ အပြည့်အစုံရှိပါတယ်။



# အတိတ်မှ အရိပ်သဖွယ်များ

## သရိုင်ရွာကြီး နိမှီးချင်စရာ

မြန်မာပြည် အထက်ပိုင်း စစ်ကိုင်းတိုင်း ရွှေဘိုမြို့၏တောင်ဘက် ဝက်လက်မြို့နယ်တွင် **သရိုင်** အမည်ရှိ ရွာကြီးတစ်ရွာ တည်ရှိသည်၊ ရွာသူရွာသားတို့သည် အစဉ်အလာကပင် ဘာသာရေးကို လေးစားကြကုန်၏၊ ရွာဦးရွာထိပ်တွင် ထုံးအဖွေးသားဖြင့် ဘုရားပုထိုးစေတီတော်များက တင့်တယ်စွာ စံပယ်တော်မူလျက် ရှိကြသည်၊ ရွာသူ ရွာသားများ၏အသိဉာဏ်ကို ဖွင့်ပေးလျက် ယဉ်ကျေးသောစာရိတ္တတို့ကိုသင်ပြကာ အရာရာတွင် ရှေ့ဆောင်လျက်ရှိသော ဘုန်းတော်ကြီးကျောင်းများလည်း ရှိကြ၏၊ ယင်းတို့တွင် **"ပင်းကျောင်းကြီး"**လည်း တစ်ခုအပါအဝင် ဖြစ်သည်၊ ကျောင်းထိုင်ဆရာတော်ကြီးမှာ ဇရာထောင်း၍ သက်ရှယ်တော်ပင် ညောင်းခဲ့လေပြီ၊ ဆရာတော်ကြီး၏ ဘွဲ့တော်မှာ **ဦးဇနိတ** ဖြစ်တော်မူ၏။

ဆရာတော်ကြီးကား နှယ်နှယ်ဆရာတော်ကြီး မဟုတ်ပါချေ၊ လောကုတ္တရာစာပေပရိယတ်ဂုဏ်နှင့် ပြည့်စုံ၍ တစ်ချိန်က မန္တလေးမြို့ ရွှေကျင်ကျောင်းတိုက်ကြီးတွင် စာချမဟာစရိယဖြစ်ခဲ့သော ဆရာတော်ကြီး ဖြစ်သည်၊ တောရွာများတွင် အေးချမ်းစွာ သီတင်းသုံး၍ သာသနာပြုလိုသောကြောင့် သရိုင်ရွာကြီးတွင် အခြေချလျက် သီတင်းသုံးတော်မူနေခြင်း ဖြစ်ပေသည်။

## အရှင်သိဂ္ဂဝမထေရ်ပမာ

စင်စစ်သော်ကား ဤဆရာတော်ကြီးသည် သာသနာတော်အတွက် မိမိ ထမ်းဆောင်ရန် တာဝန်တစ်ခု ကျန်နေသေးသည့်အလား ဤရပ် ဤရွာများတွင် မငြင်မငြိ နှလုံးချို့စွာ သာသနာပြုနေခဲ့ခြင်း ဖြစ်၏၊ အချိန်ကား မရောက်လာသေး၊ တာဝန်လည်းမကျေသေး၊ သို့သော် သက်ရှယ်တော်ကား ရင့်ညောင်းခဲ့လေပြီ၊ ပင်လည်း ပင်ပန်းတော်မူလှလေပြီ၊ ထို့ကြောင့် ၅၀ ကျော် ၆၀ ခန့်ရှိသော ကျောင်းသား ကိုရင်များအား စာပေသင်ကြား ပို့ချမှုလုပ်ငန်းကို လက်ထောက်တပည့် ဦးပဥ္စင်းကြီးအား လွှဲထားလိုက်လေပြီ၊ ဤသို့ဖြင့် အချိန်ကို ငံ့လင့်နေခဲ့၏။

အချိန်ကား ၁၂၆၇-ခုနှစ် ဆောင်းကာလတွင် ဖြစ်၏၊ မိခင်က ဆွမ်းအုပ်နီကြီးကို ခေါင်းပေါ်ရွက်, အသက်အားဖြင့် ခြောက်နှစ်ခန့်မျှသာ ရှိသေးသော သားသူငယ်ကို လက်က ဆွဲ၍ ကျောင်းဝင်းထဲသို့ ဝင်လာချေပြီ၊ ဆရာတော်ကြီးအား အပ်နှံရန် ဖြစ်၏၊ ဆရာတော်ကြီး၏ စိတ်တွင် ကြည်လင် ရွှင်ပျသွားလေသည်၊ သူငယ်ကို ကြည့်၍ ပီတိလည်း ဖြစ်နေမိ၏၊ ဓာတ်ချင်းဟပ်လေသလော မပြောတတ်၊ ရင်တွင်း၌ တလှပ်လှပ် ခံစားနေရသည်၊ စောင့်စားခဲ့ရသော အချိန်ကား ရောက်လာခဲ့ပြီတည်း။

"သာသနာ နောင်တစ်ခေတ်တွင် တကယ်ပင် အကျိုးများမည့် ထူးခြားသည့်သူငယ်"ဟူ၍လည်း စိတ်ဝယ် သည်းဘဝင် စွဲထင်နေမိ၏၊ ထို့ကြောင့် ပင်းကျောင်းဆရာတော်ကြီးက သူကိုယ်တိုင်စာပြဖို့ရန် ပြင်ဆင်လေတော့၏၊ ဥပမာကပ်၍ ထင်ဟပ်ရပါလျှင် တတိယသင်္ဂါယနာ ခေါင်းဆောင်ကောင်း အရှင်မဟာမောဂ္ဂလိပုတ္တတိဿလောင်းကလေးကို ထိန်းကျောင်းစောင့်ရှောက်ကာ သာသနာတွင်အရာဝင်အောင် ပြင်ဆင်ပေးသော **အရှင်သိဂ္ဂဝ**မထေရ်ကြီးပမာ ဖြစ်တော့သည်။ ။

## သူ့နာမည်က မောင်ဌေးလွင်တဲ့

သူငယ်ကလေး၏ အမည်မှာ **မောင်ဌေးလွင်** ဖြစ်၏၊ ယောက်ျားပီသ၍ ဥပမိရုပ်နှင့်ပြည့်စုံသူ ဖြစ်၏၊ သွက်လက်၏, ချက်ချာ၏, ရုပ်ရည် သန့်၏, ခန့်၏, ဖျတ်လတ်သော ဉာဏ်ရှိပုံ ပေါ်၏၊ အသား မဖြူမညို ရှိသည်၊ မျက်လုံး မျက်ခုံး နှာတံ ပေါ်လွင်၏၊ မျက်နှာ ရွှင်လန်းသည်၊ ဒေသ၏ ယဉ်ကျေးမှုအတိုင်း ဆံရစ်ဝိုင်း ဆံထုံးကလေးနှင့် ချစ်စဖွယ်ဖြစ်၏၊ မိဘများမှာ ယင်းသရိုင်ရွာကြီးမှ **ဦးဇောတိ+ဒေါ်အုန်းလှိုင်**တို့ ဖြစ်ကြသည်၊ မောင်ဌေးလွင်ကလေးကို မြန်မာသက္ကရာဇ် ၁၂၆၁-ခု တပို့တွဲလပြည့်ကျော် ၁၄-ရက် (ခရစ်နှစ် ၁၉၀၀ ပြည့် ဖေဖော်ဝါရီလ ၂၇-ရက်) အင်္ဂါနေ့ နံနက် ၁၁-နာရီခန့်တွင် မီးရှူးသန့်စင် ဖွားမြင်ခဲ့၏၊ အမိ အဖ အဘိုး အဘွားနှင့် ဆွေမျိုးများ၏ ယုယ မြတ်နိုးခြင်းကို ခံယူရသူ ဖြစ်သည်။

> **"ဇေယျတု" သက္ကရာဇ် ၁၂၆၁-ခု တပို့တွဲ လပြည့်ကျော် ၁၄-ရက် အင်္ဂါနေ့ မြန်မာနေ့ ၁ ချက်တီးကျော် အချိန်တွင် သတို့သားကို မာတာ မိခင် ဖွားသန့်စင်သည် သက်လျှင် ရာကျော် ရှည်စေသောဝ်။**

**ရာသီစက္က**




**နဝင်းဇာတာ**




**မောင်ဌေးလွင်၏ဇာတာခွင်**

## ပညာသင်ဦးစ သူငယ်ကလေး

သူငယ်ကလေး ရောက်လာအပ်နှံသည်မှစ၍ ပင်းကျောင်းဆရာတော်ကြီးမှာ ကြောင့်ကြမဲ့မနေ သာတော့ချေ၊ အခြားအခြားသော ကျောင်းသား သူငယ် သာမဏေငယ်တို့၏ ပညာသင်ကြားမှုကို လက်ထောက်တပည့်ဦးပဥ္စင်းကြီးအား လွှဲထားပြီး ဖြစ်၏၊"ဤသူငယ်ကိုကား မိမိကိုယ်တိုင်သင်ကြား ပေးမှ တာဝန်ကျေတော့မယ်"ဟု ထင်မြင်လာ သည့်အတိုင်း ယခုအခါ...ကိုယ်တော်တိုင် သင်ကြား ပေးမှုလုပ်ငန်း စလေပြီ။

ဦးစွာ ပထမ မောင်ဌေးလွင်ကလေးကို ဆောင့်ကြောင့်ထိုင် လက်အုပ်ချီစေ၍ ဆရာတော်ကြီးက ပီပီသသ **"နမော ဗုဒ္ဓါယ သိဒ္ဓံ"**ဟု တိုင်ပေးတော်မူ၏၊ မောင်ဌေးလွင်ကလေးက လိုက်၍ ဆိုရသည်၊ ဤသည်မှာ ပုဂံခေတ်မှ စ၍ တွင်ကျယ်လာခဲ့သော ရှေးဆရာတော်ကြီးများ၏ ပဏာမဘုရားရှိခိုးပင် ဖြစ်၏၊ ("ဗုဒ္ဓါယ-မြတ်စွာ ဘုရားအား၊ နမော-ရှိခိုးပါ၏၊ သိဒ္ဓံ-အရာရာ ပြီးမြောက်ပါစေသတည်း"ဟု ဆိုလို၏၊) ဗုဒ္ဓ ဘာသာဝင်များဖြစ်၍ ဘုရားကို ဦးစွာ ရှိခိုး လိုက်ခြင်း ဖြစ်ပေသည်၊ ရှိခိုးရသည့်အတွက် "အရာရာ ပြီးမြောက်ပါစေသတည်း" တဲ့..., ဆုတောင်းမှုပါ ပါသည်။

## ကန့်ကူလက်လှည့်ဆရာတော်

ထို့နောက် ပင်းကျောင်းဆရာတော်ကြီးက ထုံးစံအတိုင်း သင်နည်းစနစ်ကို စလေသည်၊ ကျောင်းသို့ ရောက်လာစ ကလေးသူငယ်တို့အား လက်ကိုင်သစ်သား သင်ပုန်းမည်းမည်းကြီးပေါ်တွင် ဝိုင်းစက်နေအောင် ဝလုံးရေး လေ့ကျင့်စေသည်မှာ ထုံးစံဖြစ်၏၊ ယခုမောင်ဌေးလွင်ကလေး

သည်လည်း ဤအတိုင်း လေ့ကျင့်နေရပြီ၊ မောင်ဌေးလွင်ကလေးက***ကံ့ကူတံ**ကို ကောင်းကောင်း မကိုင်တတ်သောအခါ ဆရာတော်ကြီးက "ဒီလိုကိုင်ရတယ်ကွ"ဟု မိန့်ဆိုကာ မောင်ဌေးလွင်၏ လက်ကလေးကိုပါ အုပ်ကိုင်ပြီး ရေးပြသည်၊ ကံ့ကူတံကို နိုင်နိုင်ကိုင်တတ်လာသောအခါ မောင်ဌေးလွင်ကလေး ဝမ်းသာသွားရ၏၊ ထို့ပြင် ဆရာတော်ကြီးက အနားမှာ ထိုင်၍ ထပ်မံ သတိပေးပြန်သည်၊ "ဟိုး...မိုးပေါ်က လမင်းကြီးကို မင်းမြင်ဖူးတယ်မဟုတ်လား၊ အေး...ဝလုံးကို ရေးတဲ့အခါ အဲဒီ လမင်းကြီးလို ဝိုင်းနေအောင် ရေးရတယ်ကွ၊ အခု မင်းရေးတဲ့ ဝလုံးက ဘဲဥလို ကြက်ဥလို ရွှေစောင်းစောင်း ဖြစ်လိုက်, ဩဇာသီးလို မဝိုင်းတဝိုင်း ဖြစ်လိုက်နဲ့ ပြီးတော့ အစလေးတွေလဲ ကျန် ကျန်နေတယ်၊ ဘယ်ဟာ အစ ဘယ်ဟာ အဆုံးမှန်း မသိအောင် ဆက်မိသွားအောင် ရေးရတယ်ကွ"ဟူ၍ဖြစ်သည်၊ ထိုနေ့က မောင်ဌေးလွင်ကလေး ကျောင်းမှ ပြန်လာသောအခါ မိခင်က အပြုံးဖြင့်ပွေ့ဖက်ပြီး ဆီး၍ကြို၏။

"သား...ဒီနေ့ ဘာစာတွေ သင်ရလဲ"ဟု မေးသောအခါ "**နမော ဗုဒ္ဓါယ သိဒ္ဓံ**ဆိုရတယ်၊ ပြီးတော့ ဝလုံးရေးရတယ်၊ သား ဝလုံးရေးတတ်ပြီ၊ စာတွေတတ်ပြီပေါ့"ဟူ၍ဖြေသဖြင့် မိခင်က သဘောကျစွာ ဟက်ဟက်ပက်ပက် ရယ်တော့၏၊ မောင်ဌေးလွင်ကလေးကား သူ့မိခင် ဘာသဘောကျ၍ ရယ်သည်မသိ၊ ပြူးကွက်ကွက်ကလေး ပြန်၍ ကြည့်နေသည်၊ သူ့အထင်နှင့်သူ ဝလုံးရေးတတ်ရင် ပြီးပြီ၊ စာသင်စရာကုန်ပြီ ထင်၍ ဖြေနေခြင်း ဖြစ်၏။

## တစ်ဆင့်တစ်ဆင့် မြင့်ထက်မြင့်

နောက်တစ်နေ့လည်း မိခင်က ကျောင်းကို လိုက်၍ ပို့ရှာ၏၊ ဆရာတော်ကြီးက ဝလုံးကိုပင် တည်တည်ငြိမ်ငြိမ်နှင့် ဝိုင်းဝိုင်းစက်စက် ရေးတတ်အောင်ဆက်လက်လေ့ကျက်စေသည်၊ ဤနည်းဖြင့် ဝလုံးကောင်းကောင်း ရေးတတ်သောအခါ နောက်နေ့များတွင် "ကကြီး ခခွေး"စသောဗျည်း ၃၃-လုံးကို ရေးပြသည်၊ ထို့နောက် ဆရာတော်ကြီးက တစ်လုံးချင်း လက်ဖြင့်ထောက်ပြ၍ အသံထွက်ပုံကို ရှေ့က တိုင်ပေးသည်၊ မောင်ဌေးလွင်ကလေးက နောက်က လိုက်၍ ဆိုရ၏၊ နှုတ်တက်ရအောင် ကျက်မှတ်စေသည်၊ ငါးလုံးတစ်စု ငါးလုံး တစ်စု ပိုင်း၍ ကျက်မှတ်ရ၏၊ တစ်စုရမှ ရှေ့ တစ်စုတိုး၍ ကျက်မှတ်စေသည်၊ ပြီးလျှင် နောက်ကပါ ပြန်ပေါင်း၍ တစ်စုတစ်ရုံးတည်း ရအောင် ဆိုရပြန်၏၊ အခြေခံ ဗျည်း ၃၃-လုံးကို အသံပီသအောင် ဆိုနိုင်သောအခါ မောင်ဌေးလွင်ကလေးမှာ ပျော်နေတော့၏၊ သူ့ဘဝတွင် မကြုံဖူး မကြားဖူးတဲ့ အသံတွေ ဆိုတတ်နေပြီဟု ကျေနပ်အားရနေသည်၊ အိမ်ပြန်ရောက်သောအခါ သူ့မိခင်အား ပီပီသသ ဆိုပြနေ၏၊ ထို့ပြင် သူသတိထားမိသည်ကိုလည်း သူ့မိခင်အား ပြန်လည် ပြောပြနေ၏၊ "သားသင်ရတဲ့ စာထဲမှာလေ ကြီးလေးကြီးပါတယ်ဗျ၊ ဟော-ကကြီးတဲ့, ယကြီးတဲ့, ဏကြီးတဲ့, ဠကြီးတဲ့" ...

ထို့နောက်ရက်များတွင် "ကကာ-ကိကီ-ကုကူ-ကေကဲ"စသော အခြေခံ မြန်မာသင်ပုန်းကြီးကို တစ်ဆင့်တက်ပေးပြန်လေသည်၊ အခြေခံသင်ပုန်းကြီးတွင် အသံဟူသမျှ အစုံအလင် ပြထား၏၊ အပင့်-အရစ်-ဝဆွဲ-ဟထိုး-အသတ် အကုန်အစင်

---

* ရှေးတုန်းက သစ်သားအပွစားဖြစ်သော လက်ပံသား, ဒီးဒူးသားတို့ကို ဖျဉ်ပြားရအောင် လွှဆွဲရ၏၊ ပြီးမှ အလျား ၃-ပေခန့်ဖြတ်, ဖျက် ၇-လက်မခန့်, အထု ၁-လက်မခန့်ရှိအောင် ရွှေဘော်ထိုးပြီးလျှင် လက်ကိုင်စရာ ခေါင်းနှင့်တကွ သစ်သားသင်ပုန်း ပြုလုပ်ကြ၏၊ ယင်းမျက်နှာပြင်ပေါ်တွင် ကော်ရည် တင်၍ မီးသွေးအမှုန့်ဖြင့် မှုန်နေအောင် ခြယ်ရ၏၊ နေပူလှန်း၍ ခြောက်သောအခါ ကံ့ကူဆံအဖြူကို ကံ့ကူတံတွင် တပ်၍ ယင်းသင်ပုန်းပေါ်တွင် ရေးရသည်၊ ယခုအခါ ကျောင်းတိုင်းလိုလိုပင် ဤသင်ပုန်းမျိုး မရှိကြတော့ပြီ။

စုံလင်အောင် သင်ပေးပြီးသောအခါ ဆရာတော်ကြီးက သုံးလေးလုံး, လေးငါးလုံး, ဆယ်ကိုးလုံးမျှ ပါဝင်စေလျက် ဖွဲ့ကုံးထားသော မြန်မာစကားပြေ ဝါကျတိုတိုကလေးများကို အစမ်းသဘောဖြင့် ဖတ်ကြားစေသည်၊ မောင်ဌေးလွင်ကလေးကလည်း စမ်း၍ စမ်း၍ ဖြည်းဖြည်း ဖတ်ရ၏၊ မဖတ်တတ်သည်တို့ကိုဆရာတော်ကြီးက ဖေး၍ကူ၍ ထောက်ပေး၏၊ ထို့ပြင် ဝါကျတိုကလေးများဖြင့် ရေးထားသော ဗုဒ္ဓဝင်အကြောင်းအရာ အတိုအထွာကလေးများကိုလည်း ဖတ်ရ၏၊ သံပေါက်ဖြင့် ရေးထားသော ဆုံးမစာ ကဗျာများကိုပါ ဖတ်ကြားရသည်၊ ဖတ်ပါများသော် ရဲလာ၏၊ ချောအောင်လည်း ဖတ်တတ်လာသည်၊ ဖတ်တတ်လေ ဝမ်းသာရလေ ဖြစ်လာ၏။

## မင်္ဂလသုတ်

ထိုသို့ မြန်မာစာကို အတော်ချောအောင် ဖတ်တတ်လာသောအခါ ဆရာတော်ကြီးက သုတပည့်ကြီးအပေါ် အတော် ကျေနပ်နေမိသည်၊ ရှေ့ကိုလည်း ခြေတစ်လှမ်းဆက်၍ "မင်္ဂလသုတ်"တက်ပေးလိုက်လေသည်၊ ထိုခေတ် ထိုအခါက "မင်္ဂလသုတ်တက်ပြီတဲ့ဟေ့"ဆိုလျှင် မင်္ဂလာတစ်ပါးပင် ဖြစ်တော့၏၊ ကျောင်းသားသူငယ်၏ စိတ်ဓာတ်ကို တစ်ဟုန်တည်း ထိုးတင်ပေးလိုက်သလိုလည်း ဖြစ်၏၊ မြင့်တက်သွား၏၊ ကျောင်းသားသူငယ်ကလည်း ဤသို့ပင် ခံစားလိုက်ရသည်၊ အဘယ့်ကြောင့်ဆိုသော် မြန်မာလို သင်ကြားနေခဲ့ရာမှ ယခုအခါ ဘာသာတစ်ပါးဖြစ်သော ပါဠိလို ပြောင်းလွှဲ သင်ကြားလိုက်ရသောကြောင့် ဖြစ်ပေသည်။

**"ဧဝံ မေ သုတံ၊ ဧကံ သမယံ ဘဂဝါ သာဝတ္ထိယံ ဝိဟရတိ ဇေတဝနေ၊ အနာထပိဏ္ဍိကဿ အာရာမေ"**

မောင်ဌေးလွင်ကလေးသည် ပျော်လွန်း၍အော်ပြီး အံနေသည်၊ အခြားသောကျောင်းသားများစွာတို့က ကျောင်းခန်းမကြီးအလယ်တွင် ကိုယ်စီကိုယ်င ကိုယ့်စာ ကိုယ် တဝေါဝေါရွတ်အံ ကျက်မှတ်နေကြသလို ဆရာတော်ကြီး အနားမှ မောင်ဌေးလွင်ကလေးကလည်း ပျော်လွန်း၍ အော်ပြီးရွတ်အံကျက်မှတ်နေသည်၊ ဟုတ်ပါသည်၊ ကလေးဘဝနှင့်ကြည့်ပါက "မင်္ဂလသုတ်"ဟူသောအဆင့်သည် မနိမ့်တော့ပြီ မဟုတ်ပါလော၊ အမှန်လည်း သဘာဝအားဖြင့် မနိမ့်လှပါပေ၊ လူ့လောကကြီးသာယာရေး, လူ့လောကကြီးတွင် မင်္ဂလာအပေါင်း ခညောင်းစုံညီရေးအတွက် ရှင်တော်ဗုဒ္ဓ ဟောပြထားသော တရားတော်တွေ မဟုတ်ပါလော။

## စူးစမ်းချင်စိတ် ကိန်းဝပ်၍လာ

ဤမင်္ဂလာတရားတော်များသည် ၃၈-ပါး ရှိ၏၊ အစက မသိခဲ့ကြ၍ "မင်္ဂလာတရားဆိုတာ ဘာလဲ" ဟု သူ့မေး ငါ့မေးနှင့် ၁၂-နှစ်ကြာခဲ့သည်၊ ဘုရားကိုယ်တော်မြတ်ထံရောက်မှ အဖြေမှန်ရကြ၏၊ အနှစ်သာရပြည့်ဝ၍လူတိုင်းလေ့လာသင့် လိုက်နာကျင့်သုံးသင့်သော တရားတော်များပေတည်း၊ ယခု မောင်ဌေးလွင်ကလေးက မင်္ဂလသုတ်ပါဠိကို ဖတ်ပြီး၍ အနက်ပါ ဆိုရသောအခါ "ဘဂဝါ-မြတ်စွာဘုရားသည်၊ ဇေတဝနေ-ဇေတဝန်ကျောင်းတော်ကြီး၌၊ ဝိဟရတိ-သီတင်းသုံးတော်မူ၏"ဟု ဆိုရာဝယ် သူက အံတွေးပေါ်လာ၏၊ "ဇေတဝန်ကျောင်းတော်ကြီးဆိုတာ ဘယ်လောက်များကြီးပါလိမ့်, တို့ပင်းကျောင်းကြီးနဲ့ ဘယ်လိုနေမလဲ၊ တို့ပင်းကျောင်းကြီးလောက်ကြီးပါ့မလား"ဟု စဉ်းစားနေမိ၏၊ မောင်ဌေးလွင်ကလေးသည် ယခုတလော စဉ်းစားချင်လာ၏၊ တွေးတောချင်လာ၏၊ စူးစမ်းချင်လာသည်၊ ယခင်ကလို မဟုတ်တော့ပြီ၊ အနည်းငယ် မျက်လုံးကျယ်လာသလို ဖြစ်လာသည်။

မင်္ဂလသုတ် ကုန်၍ နမက္ကာရသို့ တက်ရသောအခါ **"သုဂတံ သုဂတံ သေဋ္ဌံ, ကုသလံ ကုသလံ ဇဟံ"** ဟူသောအပိုဒ်သည် မောင်ဌေးလွင်အဖို့ စည်းလိုက်၍ အကောင်းဆုံးအပိုဒ် ဖြစ်၏၊ အသံကို



ဓေတီလှ

ခပ်ပြတ်ပြတ်နှင့် မာဆတ်ဆတ်ဆိုလေ စည်းချက်ဝါးချက်လိုက်၍ ကောင်းလေ ဖြစ်တော့သည်။

သင်ရိုးစည်းကမ်း အစဉ်အလာအရ မင်္ဂလသုတ်ပြီးလျှင် နမက္ကာရ၊ ရတနာရွှေချိုင့်၊ အတွင်းအောင်ခြင်း၊ အပြင်အောင်ခြင်း၊ ပရိတ်ကြီးနှင့်လောကနီတိတို့ကို အစဉ်အတိုင်း သင်ယူကြ၏။ လေ့လာကျက်မှတ်နေကြရသော ထုံးစံရှိ၏။ မောင်ဌေးလွင်ကလေးလည်း ယခု ဤအတိုင်းပင် လေ့လာနေရ၊ ကျက်မှတ်နေရလေပြီ၊ နာရီမှသည် ရက်၊ ရက်မှသည် လ၊ လမှသည် နှစ်သို့တိုင်အောင် တရွေ့ရွေ့ တရိပ်ရိပ်နှင့် ချီတက်လာခဲ့ရာ ယခုအခါ လောကနီတိသို့ပင် ရောက်ရှိနေလေပြီ။

## ကလေးငယ်၏ သူ့အတွေး

လောကနီတိ၌ သဘာဝကို ပြရာအခန်းတွင် "အပ္ပဒိရာ-နို့ရည်မထွက်သော၊ ဂါဝီ-နွားမသည်၊ စလေ-ကန်တတ်၏"ဟု ပါရှိရာ သူအလွန်သဘောကျ၏၊ အဓိပ္ပာယ်ပေါက်သွား၏၊ ခေါင်းတညိတ်ညိတ်ဖြင့် ကျေနပ်နေသည်၊ သူမြင်ဖူးသော နွားမကြီးကို မျက်စိထဲမြင်ယောင်လာသည်၊ ထို့ကြောင့်"ထင်း"ခနဲ "ကွင်း"ခနဲ သဘောပေါက်သွားသည်။

"ဟုတ်ပ-ဟုတ်ပ၊ တို့အိမ် ဟိုဘက်ခြံထဲက နွားမကြီး ကန်ပေ့၊ နို့ရည်လည်း မထက်ဘူး၊ အညှစ်လည်း မခံဘူး၊ သူ့ကလေးငယ် စို့ဖို့ မကျန်ဘဲနေမှာ စိုးလို့ ထင်ပါရဲ့"

ထို့ပြင် ပညာရှိတို့ ကျင့်သုံးပုံကို ပြရာ နောက်တစ်ခန်းတွင်လည်း စာအဓိပ္ပာယ်ကို သူကြံစည်နေမိပြန်၏။

"ပဏ္ဍိတော-ပညာရှိသည်၊ အပုစ္ဆော-သူမမေးမူကား၊ ဘေရီ-စည်ကြီးသဖွယ်၊ ဟောတိ-ဖြစ်ရ၏၊ ပုဋ္ဌော-သူတည်း မေးမူကား၊ ပဇ္ဇုန္နော-မိုးကြီးသဖွယ်၊ ဟောတိ-ဖြစ်ရ၏" ဤသို့ ရှိသည်ကို အပြန်ပြန် အထပ်ထပ် ဖတ်၍ ကြံစည်နေမိသည်။

"သူ"မေးမူကား စည်ကြီးသဖွယ် ဖြစ်။

"သူတည်း"မေးမူကား မိုးကြီးသဖွယ် ဖြစ်။

ဘယ်လိုပါလိမ့်၊ ယောက်ျားမဟုတ် "သူမ"မေးတာနှင့် ပညာရှိက စည်ကြီးလို လုံးလုံးကြီး ဖြစ်ရမှာလား။

ပြီးတော့ မိန်းမ မဟုတ်တဲ့သူ "အထီး"က မေးတော့ မိုးကြီးလို ကောင်းကင်ပြင်ကြီးလို ပြန့်ပြန့်ကျယ်ကျယ်ကြီး ဖြစ်ရမှာလား။

သူတွေးမရအောင် ဖြစ်နေသည်၊ အမှန်မှာ ထိုသို့ မဟုတ်ချေ၊ မောင်ဌေးလွင်ကလေး ထင်သလို"သူမ" "သူထီး"လည်း မဟုတ်ပါပေ၊ မောင်ဌေးလွင်ကလေးက ရှေးနိဿယ ဝေါဟာရကို မကြွယ်ရှာသေး၍ အတွေးမှားနေခြင်း ဖြစ်ပါသည်။

## အဓိပ္ပာယ်ယူရန် အမှန်မှာကား

အဓိပ္ပာယ်အမှန်ယူရမည်မှာ "သူ မမေးမူကား စည်ကြီးလို (မတီးလျှင် မမြည်သော စည်ကြီးလို) တိတ်ဆိတ်စွာ နေရမည်၊ သူတည်းမေးမူကား (သူတစ်ယောက်က မေးမူကား) မိုးကြီးလို (တဖြုန်းဖြုန်း ရွာသွန်းကြဲချသောမိုးကြီးလို)ပြောဆိုဖြေကြားရမည်" ဟု ဆိုလိုသည်၊ မည်သို့ပင် မောင်ဒွေးလွင်ကလေး အတွေးမှား အယူအဆ မှားနေစေကာမူ သူ၏ ထူးခြားသောအစွမ်းအစ သန္ဓေပါ ဝိစာရဏာကလေးကား အံ့သြစရာပင် ဖြစ်တော့၏၊ တောက်မည့်မီးခဲ ရဲလျှက်လာသည်ကို တွေ့ရ၏၊ "ဂိရိကဏ္ဏက်-တောတောင်တစ်လျှောက် ပေါက်သောဆူးသည်၊ ကောတိက္ခတီ-ဘယ်သူ ချွန်၍ ထက်သနည်း၊ သာမံဘာဝေါ-သူ့အလိုလိုသာလျှင် ထက်ပြီးသားလာ၏" ဟူသကဲ့သို့ ဖြစ်တော့သည်။

ဤသို့ မောင်ဒွေးလွင်ကလေး၏ သွက်လက်ထက်မြက်မှုနှင့် ပင်းကျောင်းဆရာတော်ကြီး၏ ကြောင့်ကြစိုက်မှုတို့ကို ပေါင်းစပ်လိုက်သောအခါ မကြာသောကာလ တစ်နှစ်ခွဲမျှလောက်အတွင်းဝယ် အခြေခံသင်ရိုးများအားလုံး ပြီးစီးပေါက်မြောက်သွားတော့သည်။

## ပိဋကတ်ဗိမာန် တက်ရန်လှေကား

သက္ကရာဇ်၁၂၆၉-ခုနှစ်က မောင်ဒွေးလွင်ကလေး အသက် ၈-နှစ် မပြည့်တပြည့်အရွယ် (ကျောင်းရောက်ပြီးနောက် တစ်နှစ်ခွဲလောက်အကြာ)တွင် ဖြစ်၏၊ ပင်းကျောင်းဆရာတော်ကြီးမှာ တပည့်မောင်ဒွေးလွင်အတွက် အလွန်အားတက်နေမိ၏၊ အခြေခံသင်ရိုးတွေ ကုန်နေသဖြင့် ကျေနပ်နေမိသည်။

ထို့ကြောင့် ရှေ့ကို ခြေတစ်လှမ်းဆက်၍ သဒ္ဒါကြီးကို တက်ပေးလိုက်ပြန်လေသည်၊ သဒ္ဒါကြီးဟူသည် လောကုတ္တရာစာပေ ပါဠိတော် အဋ္ဌကထာ ဋီကာ ဗိမာန်မုခ်ဦးအထွတ်ဆီသို့ တက်ရာတွင် လှေကားကြီးသဖွယ်ဖြစ်၏၊ အလွန်အရေးကြီးလှသည်၊ ဤလှေကားကြီးကို(သို့မဟုတ်-ဤငြမ်းကြီးကို)ပိုင်နိုင်စွာ ကိုင်၍ တက်ရ၏၊ မပိုင်နိုင်လျှင် ချော်၍ ချော်၍ ကျနေတတ်ကြသည်၊ ထို့ကြောင့်ပင် "သဒ္ဒါမပိုင် စာမနိုင်"ဟူ၍လည်းကောင်း, "သဒ္ဒါမတတ် စာမတတ်" ဟူ၍လည်းကောင်း လောကဆိုရိုး ဥဒါန်းထိုးတတ်ကြလေသည်၊ ပင်းကျောင်းဆရာတော်ကြီးက မောင်ဒွေးလွင်ကလေး အခြေခံ ကောင်းကောင်းပိုင်အောင် ကြောင့်ကြစိုက်တော်မူနေရ၏၊ မောင်ဒွေးလွင်ကလေးကလည်း စာထဲ၌သာ စိတ်ဝင်စားနေတတ်သည်၊ စာကို အံနေရလျှင် သူပျော်၏၊ စာကို ကျက်နေရလျှင် သူနှစ်သက်၏၊ ကလေးသူငယ်ပင် ဖြစ်သော်လည်း လူကြီးတစ်ယောက်အလား စိတ်ထားကခံ့ထည်နေသည်၊ အံ့ဖွယ်ပင် ဖြစ်တော့၏၊ သူ့ဇာတိနှင့်သူ, သူ့ပါရမီနှင့်သူ လာခဲ့သည် မဟုတ်ပါလော၊ ဆရာတော်ကြီးက သဒ္ဒါကြီးသုတ်စဉ်ကို သင်ပေးလိုက်, သဒ္ဒါကြီးသုတ်နက်ကို ချပေးလိုက်, ရုပ်တွက်ခိုင်းလိုက်နှင့် အတော်ဟုတ်နေလေပြီ၊ အသိဉာဏ်အတွေးအခေါ် ကလေးများလည်း တစ်စ တစ်စနှင့် ပို၍ ကျယ်ပြန့်လာလေပြီ။

## ပွင့်အံ့ပဒုံကြာ ငုံပမာကဲ့သို့

မောင်ဒွေးလွင်ကလေးသည် (ရွှန်းစိုတင့်ထွား ပွင့်ကားဖို့ရန် နံနက်ခင်း နေမင်းရောင်ခြည်ကို စောင့်မျှော်နေသော ပဒုမ္မာကြာငုံပမာ) ဆရာသမားတည်းဟူသော အလင်းရောင်ပေးမှုကို ရလိုက်သောအခါ နေ့ချင်းညချင်းလို အသိဉာဏ်များ ပွင့်ကားကျယ်ဝန်းလာတော့သည်၊ မကျယ်ဝန်း၍နေနိုင်မည်လော၊ သင်ကြားနာယူနေရသော စာပေတို့က အခြေခံသင်ပုန်းကြီးမှ စ၍ ... မင်္ဂလသုတ်, နမက္ကာရ,



**သာစွ ရှာသရိုင်**

လောကနီတိ စသည်ဖြင့် တစ်ဆင့်ထက်တစ်ဆင့် မြင့်မြင့်လာရာက ယခုအခါ ပိဋကတ်လှေကား သဒ္ဒါကြီးများကိုပင် သင်ယူနေရပြီ မဟုတ်တုံလော။

ထို့ကြောင့်ပင် သဒ္ဒါကြီးပြယုဂ်များတွင် "ဗုဒ္ဓေါ-ဘုရား၊ ဓမ္မော-တရား၊ သံဃော-သံဃာ"ဟု ရတနာသုံးပါးနှင့်စပ်သော စကားလုံးတို့ကို တွေ့ရသောအခါ စကားပီစအရွယ်တုန်းက အဘိုးအဘွားတို့က ဩကာသမှ စ၍ **"ဣတိပိ သော ဘဂဝါ"**တို့ကို ဘတ်တိုက်ချပေးပြီးလျှင် ပုံပြင်လို ပြောပြခဲ့သော ဘုရားအကြောင်းအရာတို့ကိုပါ ဆက်စပ် တွေးမိလာ၏။

"ဘုရားအလောင်းဘွဲ့တော်က **သိဒ္ဓတ္ထ**တဲ့၊ ခမည်းတော်က **သုဒ္ဓေါဒန**၊ မယ်တော်က **မဟာမာယာ**တဲ့၊ သူတို့တစ်တွေဟာ ရွှေဘိုသားတွေလား၊ မုံရွာသားတွေလား၊ ဒါမှမဟုတ် မန္တလေးသားတွေလား" ဝိုးတဝါး တွေးမိလာပြန်သည်၊ မောင်ဒွေး လွင်ကလေးသည် သူ့မှာ ရှိသောဉာဏ်ကလေးဖြင့် သူ့လက်လှမ်းမီသလောက် လွတ်လွတ်လပ်လပ် တွေးတောနေတော့၏၊ တစ်ခါ တွင်လည်း ကျောင်းမှ ဆရာတော်ကြီးက သင်ပေးလိုက်သော စာတို့ကို

အိမ်မှာ အံရင်း ကျက်ရင်းက အိမ်ရှေ့ဘက်မှာရှိသော မန်ကျည်းပင်ကြီးဆီသို့ မျက်လုံးရောက်သွားမိ၏၊ အတွေးရေအလျဉ်လည်း တစ်ပါတည်း ပါလာသည်။

"ဒီ မန်ကျည်းပင်ကြီးဟာ အကိုင်းတွေ ထွက်၊ အရွက်တွေ ပေါက်၊ အညွန့်တွေ ဝေလာ၊ အသီးတွေ သီး၊ လူတွေက အညွန့်တွေ အသီးတွေ ခူးစား၊ အဲဒီ အရွက်တွေ၊အညွန့်တွေ၊ အသီးတွေဟာ ဒီအပင်ကြီးရဲ့ သားသမီးတွေပဲ နေမှာ၊ တချို့လည်း ကြွေကျ၊ နောက်ပြန်ပေါက်၊ သူလည်း အသက်ရှိတာပဲ၊ လူတွေလိုပဲ နေမှာပေါ့၊ အငယ်ကလေး မွေးလာ၊ ကြီးတော့ သေသွား၊ နောက်တော့ ကလေးတွေ ပြန်ဖြစ်၊ ဟုတ်တယ်။

ဒီမန်ကျည်းပင်ကြီးအတိုင်းပဲ၊ ပြီးတော့ ခုချိန်ခါမှာ ငါတို့က ဒီအပင်ကြီးရဲ့ အရွက်တွေ အသီးတွေကို ခူးစားတယ်၊ တစ်နေ့ကျရင် ငါတို့လည်း ဒီ မန်ကျည်းပင်ကြီးရဲ့ အရွက်တွေ အညွန့်တွေ အသီးတွေ သွားဖြစ်နေဦးမှာလားပဲ၊ ပြီးတော့ မန်ကျည်းရွက်တွေက လူတွေဖြစ်ပြီး ငါတို့ကို တစ်လှည့် ပြန်ခူးစားနေကြဦးမှာလားပဲ"

## ဒိဋ္ဌိအယူတစ်မျိုး ဝင်နေခဲ့

မောင်ဌေးလွင်ကလေးသည် တောင်စဉ် ရေမရ ဦးတည့်ရာ လျှောက်တွေးနေမိသည်၊ ကလေးဖြစ်၍ ဘာမျှ နားမည် မတုပ်တတ်သော်လည်း အမှန်မှာ အယူမှားနေသော ဒိဋ္ဌိတစ်မျိုး ဝင်နေခြင်း ဖြစ်၏၊ မောင်ဌေးလွင်ကလေးသည် အသက် ရှစ်နှစ်ကျော် လာပြီဖြစ်၍ တွေးတတ်ခေါ် တတ် စူးစမ်းတတ်သော အလေ့ရှိနေ၏၊ မသိသောအရာတို့ကို မေးချင်လာ၏၊ မမြင်ဖူးသောအရာတို့ကို ကြည့်ချင်လာ၏၊ မကြားဖူးသော အရာတို့ကို နားစွင့်လာတော့သည်၊ နေရာတကာ စပ်စပ်စုစု လုပ်လာသည်၊ တစ်ခါတွင်လည်း သူတို့ရွာမှာ ပေါင်ဖွာပေါင်ဖွာနှင့် ကျယ်လောင်ကျယ်လောင် စကားအလွန်ပြောလေ့ရှိသော လူကြီး တစ်ယောက် ရောဂါတစ်ခုဖြင့် ရုတ်တရက်သေသွား၏၊ ဤသည်ကို ကြားရသောအခါ မောင်ဌေးလွင်ကလေးက ဤသို့ တွေးမိသည်။

"လူတွေဟာ ဘဝတစ်ခုအတွက် စကားပြောဖို့ရာ သူ့အတိုင်းအတာနဲ့ သူလာတာရှိမှာ၊ တစ်ဘဝလုံးအတွက် စကားလုံး ဘယ်လောက်သာပြောရမယ်လို့ သတ်မှတ်ပြီးသား လာတာရှိမှာ၊ ဒါကြောင့် အဲဒီ သတ်မှတ်ထားတဲ့ စကားလုံးတွေ ပြည့်သွားလို့ ဒီလူကြီး သေသွားရတာရှိမှာ၊ သူက စကားတွေ သိပ်ပြောတာကိုး"

မောင်ဌေးလွင်ကလေးအား အရွယ်နှင့် မလိုက်အောင် လျှောက်တွေးနေတတ်သည်၊ မှန်သည်-မှားသည်ကို အပထား၊ ထူးခြားသော သူ့အတွေး၊ အရည်အသွေးရှိသော သူ့ အစွမ်းအစကလေးတို့ကိုမူ ချီးကျူးရမည်သာ ဖြစ်ပေ၏။

## ကောင်းမှုလိုလားသူတို့၏ဆိပ်ကမ်းပမာ သူတို့ရွာ

### စာပေအံသံ တညံညံနှင့်

* မောင်ဌေးလွင်ကလေးသည် သရိုင်ရွာထဲတွင် သူတို့အိမ်မှအသံကလေးစာစာဖြင့်သဒ္ဒါကြီးသုတ်စဉ် ကျက်နေသလို၊ အခြားသော တစ်နေရာ မနီးမဝေးသောအိမ်ကြီးတစ်အိမ်မှလည်းစာပွဲသဘင်နေ့တိုင်း ယင်၍ သီလရှင်ဆရာကလေးများ၊ ဆရာကြီးများ၊ ရှင်သာမဏေများ၊ ရဟန်းငယ်အချို့တို့ စာတက်စာအံ တညံညံ ဖြစ်နေကြ၏၊ ရှင်းပြပါဦးမည်၊ ထိုအချိန်အခါက သရိုင်ရွာထဲတွင် မောင်ဌေးလွင်ကလေး၏ ဘကြီးတော်သော ရဟန်းလူထွက် ထရံကာဆရာကြီးက မိမိအိမ်သို့ လာရောက်၍ သင်ယူနေကြသော သီလရှင် အစိတ်သုံးဆယ်ခန့်နှင့် ရှင်သာမဏေ၊ ရဟန်းငယ်အချို့ကို သဒ္ဒါ သင်္ဂြိုဟ် ဋီကာကျော် ရူပသိဒ္ဓိ စသော ပိဋကတ် အခြေခံကျမ်းစာများနှင့် နေ့ဝါ ညဝါများအပြင် အထက်ပိုင်းဆိုင်ရာပါဠိတော် အဋ္ဌကထာ ဋီကာအချို့ကို ချပို့ပေးနေသော အချိန်ဖြစ်၏။

ဤသည်တို့ကို ထောက်ဆသောအားဖြင့် မောင်ဌေးလွင်ကလေးတို့၏ သရိုင်ရွာသည် အစဉ်အလာကပင် လောကုတ္တရာစာပေတို့နှင့် ရင်းနှီးခဲ့ကြသည်ဟု သိနိုင်တော့၏။

---

* ထရံကာဆရာကြီး၏သား အရှင်ဝိသုဒ္ဓိ ရေးသော ပစ္စယတ္တာဝဗောဓနီကျမ်းနိဒါန်း။

## ဒေါ်ကြွသည်မှာ ထရံကာဆရာကြီး

ထရံကာဆရာကြီးသည် သရိုင်သားဇာတိဖြစ်၍ ငယ်မည် **မောင်အုန်းညွှန့်** ဖြစ်၏၊ ရဟန်းဘွဲ့ **အရှင်ဣန္ဒက**ဖြစ်သည်၊ စာပေသင်ကြားရင်း ရွှေကျင်ဆရာတော်လောင်း ဆရာတော်၏ ခြေရင်းသို့ ရောက်ရ၏၊ မင်းတုန်းမင်းကြီးလက်ထက် ၁၂၂၂-ခုနှစ်တွင်... ရှိမ်းမကားရွာ တောရကျောင်းတွင် သီတင်းသုံးနေသော (နောင်အခါ ရွှေကျင်ဂိုဏ်းကြီးကို တည်ထောင်၍ ရွှေကျင်ဆရာတော်ဘုရားကြီး ဖြစ်လာမည့်) ဆရာတော် **အရှင်ဇာဂရ**ကို မန္တလေး နေပြည်တော်သို့ ပင့်၍ ကျောင်းတိုက်ကြီး ငါးတိုက်ကို ဆောက်လုပ် လှူဒါန်းသည်။

၁။ **ထရံကာတိုက်** (ထရံကာမြို့စားမင်းသမီးက ဆောက်လုပ်လှူဒါန်းသည်။)
၂။ **ရမည်းသင်းတိုက်**
၃။ **မင်းကင်းတိုက်**
၄။ **မြတောင်တိုက်**ဟူသော အခြံအရံလေးတိုက်နှင့်တကွ
၅။ **မဟာဓမ္မိကာရာမတိုက်**ဟူသော တိုက်မကြီးတို့ ဖြစ်ကြ၏။

ရွှေကျင်ဆရာတော်ကြီးကတိုက်တာအသီးသီးကို အကြီးအကဲများအပ်နှင်း၍ အုပ်ချုပ်ကွပ်ကဲစေထားသည်၊ တစ်နေ့တွင် ထရံကာတိုက်၏ အကြီးအကဲ လစ်လပ်သွားသည်၊ ထို့ကြောင့် ရွှေကျင်ဆရာတော်ကြီးက မိမိအနားတွင် ရှိသော စာပေလည်း တော်သော အရှင်ဣန္ဒကအား ထရံကာတိုက်ကို အုပ်ချုပ်ရန် အပ်နှံတော်မူ၏၊ ထိုအခါမှစ၍ အရှင်ဣန္ဒကသည် "ထရံကာဆရာတော်"ဟု တွင်လာသည်။

ထရံကာဆရာတော် အရှင်ဣန္ဒကသည် စာပေတော်၍ ပရိယတ္တိစာပေများကို ပို့ချခြင်း, တရားဟောကောင်းခြင်း, စကားပြောကောင်းခြင်း, ဗဟုသုတကြွယ်ဝခြင်း, ရာဇသတ် ဓမ္မသတ်တို့ကို နိုင်နင်းခြင်း, ဗေဒင် နက္ခတ်တို့၌လည်း ကျွမ်းကျင်ခြင်းစသော ဂုဏ်တို့နှင့် ပြည့်စုံ၍ မင်းတုန်းမင်းကြီးလက်ထက်က တစ်ကြိမ်, သီပေါမင်းလက်ထက်တွင် တစ်ကြိမ် "ရာဇဂုရုတံဆိပ်"နှစ်ကြိမ် နှစ်တန် လက်ခံ ရရှိတော်မူလေသည်။

ထို့နောက် သီပေါမင်း ပါတော်မူမည့် ၁၂၄၇-ခုနှစ် ဝါဆိုလတွင် အသက် ၄၀ အရွယ်၌ လူ့ဘောင်သို့ ပြောင်း၍ မိမိ၏ ဇာတိရွာ သရိုင်သို့ ပြန်ကာ **"မရွှေတုတ်"**ဆိုသောအမျိုးသမီးငယ်နှင့် အိမ်ထောင်ကျလေ၏၊ ထို့နောက် လယ်ယာကိုင်းကျွန်း လုပ်ကိုင်ခြင်း, တစ်ဖက်မှလည်း မိမိတတ်ကျွမ်းခဲ့သော စာပေပရိယတ်တို့ကို ပို့ချခြင်းဖြင့် အထက်ဖော်ပြပါအတိုင်း သာသနာတော်၏ အကျိုးကို သယ်ပိုးဆောင်ရွက်နေသည်။

ဆရာကြီးမှ သားသမီးငါးယောက် ထွန်းကားခဲ့၏၊ ဒုတိယသား **မောင်နိုးတင့်**သည် အရွယ်ရောက်သော အခါ သာသနာ့ဘောင်သို့ ဝင်၍ အသက် ၂၀ ပြည့်သောအခါ ရဟန်းပြုပြီးလျှင် **"ဦးဝိသုဒ္ဓိ"**ဟူ၍ စာတတ်ပေတော် အကျော်အမော် တစ်ပါး ဖြစ်ခဲ့သည်၊ ထရံကာဆရာကြီးသည် တရွေ့ရွေ့ဖြင့် စာပေတို့ကို ပို့ချရင်း အချိန်ကို ကုန်လွန်စေခဲ့၏၊ မောင်ငွေးလွင်တို့ သဒ္ဒါကြီးသုတ်စဉ် ကျက်နေသောအခါ ဆရာကြီး အသက်မှာ ၆၀ ပင် ကျော်လာခဲ့လေပြီ။

## သရိုင်သီလရှင်စာသင်တိုက်

၁၂၆၈-ခုနှစ် စစ်ကိုင်းတောင်ရိုးမှ အေးငြိမ်းချောင် ဆရာကြီး ဒေါ်ကုမ္မာရီ, ဒေါ်သီလဝတီ, ဒေါ်ခေမာဇုတီ, သမိဒ္ဓေါဒယချောင်ဆရာကြီး ဒေါ်မာလာရီ (ထိုအချိန်က သမိဒ္ဓေါဒယချောင် မတည်ရသေး၊) ညီမရင်း ဒေါ်သုဓမ္မစာရီ, ညီမဝမ်းကွဲ ဒေါ်ဝဏ္ဏစာရီ, သိဝံဂါမိချောင်ဆရာကြီး ဒေါ်ဉာဏစာရီ အစရှိသော ပရိယတ္တိစာပေကို လိုလားသော သီလရှင်များသည် ထရံကာဆရာကြီးထံ စာပေသင်ကြားရန် သရိုင်ရွာရှိ

သီလရှင်စာသင်တိုက်သို့ လာရောက်နေထိုင်ကြ၏၊ ဆရာကြီးကိုအကြောင်းပြု၍ ထိုအချိန်က သရိုင်ရွာ သီလရှင်စာသင်တိုက်တွင် သရိုင်ရွာဇာတိ ဒေါ်သုဓမ္မစာရီ အုပ်ချုပ်လျက် သီလရှင် ၃၀ ကျော်မျှရှိခဲ့လေသည်၊ ထိုစဉ်က သီလရှင်ကျောင်းနှင့် ဆရာကြီးအိမ်တို့အကြားတွင် ကူးသန်းသွားလာနေကြသော သီလရှင်ကလေးတို့ကို အမြဲလိုပင် တွေ့မြင်ရနိုင်သည်၊ တစ်နေ့တွင် လမ်းဘေးအိမ်ကြီးကစ်အိမ် အပေါ်ထပ်မှ အသံကလေးစာစာဖြင့် သဒ္ဒါကြီး သုတ်စဉ်ကျက်နေသော ကျောင်းသားငယ်လေး အသံကို ကြားကြရ၏၊ ထရံကာဆရာကြီး အိမ်မှ စာတက်၍ ပြန်လာသောအသက် ၂၂-နှစ်ရှိသီလရှင် ဆရာလေးဒေါ်မာလာရီက * "ဟေး-မောင်ဌေးလွင် မင်းက ဘုရားပွဲကို လိုက်မသွားဘူးလား၊ သူများတွေ သွားကြတာ တစ်ရွာလုံးကုန်တော့မယ်၊ ဇာတ်ပွဲတွေနဲ့တဲ့၊ လူတွေက ကြိတ်ကြိတ်တိုး သိပ်စည်တယ်ဆိုပဲ"

"ဟုတ်ကဲ့ ဆရာလေး၊ စာအံ ပျက်မှာ စိုးလို့ ကျွန်တော် လိုက်မသွားဘူး"။ "အေး-အေး၊ ကောင်းတယ် ကောင်းတယ်၊ မင်း...တယ်တော်တဲ့ ကလေးပဲ၊ မင်းကြီးလာရင် ဆရာတော် ဖြစ်မယ်"။

## စာအံပျက်မှာစိုး၍ ဘုရားပွဲမလိုက်ခဲ့

မောင်ဌေးလွင်ကလေးက "စာအံပျက်မှာ စိုး၍ ဘုရားပွဲမလိုက်ဘူး"ဟု ဆိုသည်၊ "အရွယ်နှင့်မလိုက် အောင် သူ့ခံယူချက်က ခိုင်မာလှချေတကား"ဟု ဆရာလေး ဒေါ်မာလာရီပင် အတွေးမျှင်တန်း၍ လမ်းတစ်လျှောက် စဉ်းစားနေမိတော့၏၊ ထိုစဉ်က သစ်ဆိမ့် ရွှေဂူကြီး ဘုရားပွဲ ကျင်းပနေသည်၊ ... တော်သလင်းလတွင် ဖြစ်၏။

ဟုတ်ပါသည်၊ အညာဒေသ ဘုရားပွဲတို့ ထုံးစံ အတိုင်း ဇာတ်ပွဲ အငြိမ့်ပွဲ ရုပ်သေးပွဲ နွားလှည်းပြိုင်ပွဲ လှေပွဲတို့အပြင် အနယ်နယ် အရပ်ရပ်မှ လာရောက်၍ ရောင်းချကြသော ဈေးဆိုင်တို့လည်း စုံလှသည်။

အဝတ်အထည် လုံချည် အင်္ကျီ တဘက် ပဝါ အညာစောင် အမျိုးမျိုး စဉ့်အိုး စဉ့်ခွက် တောင်းပလုံး ဖျာ ဆန်ခါ ဆန်ကော အိမ်သုံးပစ္စည်းအစုံ ဇလုံ ပန်းကန်၊ အောက်ထစ်ဆုံး ငရုတ်ဆုံ ငရုတ်ကျည်ပွေ့ အထိ အစုံ ရှိသည်၊ လယ်ယာသုံးအားဖြင့်လည်း ထယ်သွား ထွန်တံ နှင်တံ ထမ်းပိုး ကြိုးတစ်စဉ်ကွေး တားမ လှ ဆောက် ပုဆိန် လိုချင်ရာ ရနိုင်သည်၊ ထို့ပြင် အမျိုးသမီးများအကြိုက် ရွှေဘိုသနပ်ခါးတုံး ကရမက် နံ့သာ ကျောက်ပျဉ်၊ မုံရွာကျောက်ကာခွက်၊ ပုဂံ ညောင်ဦးဖြစ် ယွန်းသေတ္တာ၊ နှီးကွမ်းအစ် လက်ဖက်ခွက် ပခြုပ်ဖာ လိုချင်စရာ အလှကုန်များလည်း စုံသည်။

ဘုရားပွဲ ကျင်းပသော ကွင်းပြင်ကြီး တစ်ခုလုံး နယ်ပေါင်းစုံ ရွာပေါင်းစုံကြသဖြင့် "ပွရွက်ဆိတ်အုံ ထုတ်နှင့်ဆွသလို" တရွရွ တလှုပ်လှုပ် သွားလာ ပျော်ရွှင်နေကြသည်၊ ပျော်စရာကောင်းသည်ကား အမှန်ပင်ဖြစ်၏၊ သို့သော် မောင်ဌေးလွင်ကလေး ကား ဆက်လက် တွေးနေမိ၏၊ အတွေးကွန်ရက် ဖြန့်ကြက်နေမိသည်။

"ခုနတုန်းက ဆရာလေး ဒေါ်မာလာရီက ပြော သွားတယ်၊ မင်းကြီးလာရင် ဆရာတော်ဖြစ်မယ်တဲ့၊ အင်း၊ဆရာတော်ဖြစ်မယ်ဆိုတာ ဘယ်လိုများပါလိမ့်၊ တို့ပင်းကျောင်းက ဆရာတော်ကြီးလို ခေါင်းမွေးတွေ ဖြူ၊ မျက်ခုံးမွေးတွေဖြူ၊ အရေတွေတွန့်၊ သွား တွေ ကျိုး အဲဒါမျိုးလို ဖြစ်မှာလား၊ ဒါမှမဟုတ် ရွှေတောင်ကျောင်းကဆရာတော်ကြီးလို မျက်စိတွေ မှုံ၊ ခါတွေ ကိုင်း၊ နားတွေ ထိုင်း၊ အရိုး အကြောတွေ

---

* သမိဒ္ဓေါဒယဆရာကြီး ဒေါ်မာလာရီ(ဖွားဘုရား)နှစ်ကိုးဆယ်ကျော် ဘဝဓရီးစာအုပ်၊ စာမျက်နှာ ၉၃-မှ။

အပြိုင်းပြိုင်းနဲ့ အဲဒီလို ဖြစ်မှာလား၊ ဘယ်လိုများပါလိမ့်" အမျှင်မပြတ်သော အတွေးတို့ကို တွေးရင်း လမ်းဘက်သို့ စိုက်၍ ငေးရင်း တဖြည်းဖြည်း ဝေးသွားသော သီလရှင်ဆရာလေးတို့၏ ကျောဘက်ကို ကြည့်ရင်း...မောင်ငွေးလွင်ကလေးတစ်ယောက် အိမ်ကြီးပေါ်မှာ ကျန်ရစ်တော့သည်။

## မောင်ငွေးလွင်တို့ မွေးမေ့ရွာ

မောင်ငွေးလွင်တို့ ရွာသည် အစဉ်အလာကပင် ဘုရား ကျောင်း ကန် ဇရပ် တန်ဆောင်း ပေါများကြ၏၊ ရှေးကပင် ဘုန်းကြီးကျောင်း ငါးကျောင်းရှိခဲ့၏၊ (၁) မောင်ငွေးလွင်တို့နေသောပင်းကျောင်းကြီး, (၂) ရွှေတောင်ကျောင်းကြီး, (၃) ဇောဓိကျောင်းကြီး, (၄) ကျောင်းမကျောင်း, (၅) တောရကျောင်းတို့ဖြစ်ကြ၏၊ ရွာနေအိမ်ခြေနှင့်စာလျှင် ကျောင်းဦးရေသည် မနည်းလှချေ၊ ရွာ၏ သက်တမ်းသည်လည်း ရင့်ညောင်းခဲ့လေပြီ၊ ပုဂံ ရှင်အရဟံတို့၏ ရှေ့ပိုင်းခေတ်လောက်နှင့် အပြိုင် ဖြစ်စရာရှိ၏ဟု သမိုင်းဆရာတို့က ယူဆကြသည်။

ရွာဦးရွာထိပ်တွင် ထုံးသင်္ကန်းအဖွေးသားဖြင့် အဝေးကပင် ဖူးမြင်နိုင်သော စေတီတော်တို့လည်း အသီးသီး စံပယ်တော်မူလျက် ရှိကြ၏၊ ထိုစေတီတော်များတွင်...

**၁။ မဟာစေတီလှဘုရား** ဤ စေတီတော်ကို ပုဂံပြည်မှ **ကျစွာမင်းကြီး** စတင် တည်တော်မူခဲ့၏၊ ပရိဝုဏ်ဝိုင်းကြီးနှင့် ခံ့ညားစွာ တည်ရှိသည်၊ နှစ်ကာလကြာညောင်း၍ ပျက်ယွင်းလာသောအခါ **အင်းဝဘုရင် မိုးညှင်းမင်းတရား** က **ဒုတိယအကြိမ်** ပြုပြင်သည်၊ ထို့နောက် ယိုယွင်းလာပြန်သောအခါ **ခင်မင်ကျောင်းဒါယကာကြီး ဦးစံဝန်**တို့က **တတိယအကြိမ်** ပြုပြင်ကြ၍ နောင်တစ်ဖန် ဦးစံဝန်၏မြေး ညီမသုံးယောက်တို့က ပြုပြင်ထားကြသည်ဟု ဆိုသည်။

ထို့ပြင် ဤပရိဝုဏ်အတွင်း၌ "ရဟန္တာအရှင်မြတ် သမုတ်အပ်သောသိမ်"ဟု ထင်ရှားသော ရှေးသိမ်ဟောင်းတစ်လုံး တည်ရှိသည်၊ ယင်းသိမ်၌ ပထမ ရွှေကျင်သာသနာပိုင် ဆရာတော်ဘုရားကြီးကို ဥပသမ္ပဒာယ်ပြု၍ ဒုတိယ ရွှေကျင်သာသနာပိုင် ဆရာတော်လောင်း ငယ်စဉ်က ရဟန်းဘောင်သို့ တက်ခဲ့၏၊ ရဟန္တာသိမ်ကြီးနှင့် ကပ်လျက် ရွှေဘုံသာစေတီတော်ကြီးလည်း တည်ရှိ၏။



ရဟန္တာအရှင်မြတ် သမုတ်အပ်သောသိမ်

သိမ်အဆောက်အအုံနှင့် ရွှေဘုံသာစေတီတော်ကြီးတို့သည် နှစ်ကာလ ကြာညောင်း၍ ဇရာထောင်းလာသောအခါ အနိစ္စသဘောကို ဟောပြောတော်မူလာကြ၏။



**မောင်ရင် ချာန်ပျံ့ တက်ရာ သက်ရာ အထိမ်းအမှတ်အုတ်ပလ္လင်ဝယ်**

ထို့ပြင် ထိုရဟန္တာသိမ်တော်ကြီးအနီး၌ မောင်ရင်ချာန်ရ တည်ထားအပ်သော "လေးကျွန်းမြေစေတီတော်ငယ်"တစ်ဆူလည်း ရှိသေး၏၊ ဤစေတီငယ်သည် ရှေးတုန်းက... ချာန်အဘိညာဉ်ရသောသာမဏေတစ်ပါးက ကျွန်းကြီးလေးကျွန်းမှ မြေအနည်းငယ်စီ ယူခဲ့၍ ဌာပနာပြီး တည်ထားအပ်သော စေတီဟု ထင်ရှားသည်။

**၂။ ရွှေဂူကြီးဘုရား** ဤစေတီတော်ကို အင်းဝဘုရင်မိုးညှင်းမင်းတရားကြီး စတင်တည်ထား ကိုးကွယ်ခဲ့သည်၊ နောက် အမွေဆက်ပုဂ္ဂိုလ်များ ပြုပြင်ကြသည်။

**၃။ ရွှေမုဋ္ဌောဘုရား** ဤစေတီတော်ကား အသောကမင်းကြီး၏ စေတီပေါင်း ရှစ်သောင်းလေးထောင်တွင် ပါဝင်သော စေတီ ဖြစ်သည်၊ ပရိဝုဏ်အဝိုင်းနှင့်တကွ တည်ရှိတော်မူ၏။

**၄။ လေးမျက်နှာဘုရား** ဤစေတီတော်လည်း ပရိဝုဏ်နှင့်တကွ သပ္ပာယ်လှစွာ စံနေတော်မူပါ၏၊ အမွေခံ အဆက်ဆက်တို့ ပြုပြင်ကြ၏။

**၅။ ပွတ်စေတီဘုရား** သားနားခံ့ထည်သော ပရိဝုဏ်နှင့် စံနေတော်မူ၍ ဆိုင်ရာပုဂ္ဂိုလ်တို့၏ ပြုပြင်မွမ်းမံမှုကြောင့် ကြည်ညိုဖွယ်ရာ ဖူးတွေ့နိုင်ပါသည်။

ဤသို့လျှင် ရွာဦးက စေတီတော်တို့ကလည်း "သုဂတိဘုံသို့ ရောက်လိုလျှင် ဤလမ်းက သွားရသည်"ဟူ၍လည်းကောင်း၊ "နိဗ္ဗာန်ကို မျက်မှောက်ပြုလိုလျှင် ဤသို့ ကျင့်ကြ" ဟူ၍လည်းကောင်း လက်ညှိုးညွှန်ပြနေသည့်အလား ရပ်သူ ရွာသား နယ်သူနယ်သားတို့၏ အားထားရာအဖြစ် တည်ရှိတော်မူကြပါသည်၊ ကောင်းမှု လိုလားသူတို့၏ ဆိပ်ကမ်းသာ၊ နိဗ္ဗာန်သို့ သွားလိုသူတို့၏ မှန်ဦးပမာ ဖြစ်တော်မူကြပေသတည်း။

ထို့ပြင် ထူးခြားမှုတစ်ခုရှိသေး၏၊ ရွာ၏ အရှေ့မြောက်ဘက် မနီးမဝေးတွင် နတ်ရေတွင်းဟု ခေါ်သော **"တပဲသာ"** ရေချိုတွင်းကြီးကလည်း ဂုဏ်သတင်းတစ်မျိုး မွှေးသေး၏၊ တစ်ချိန်တုန်းက ... သိကြားမင်းနှင့် တပည့်ဖြစ်သော ဘီလူးမင်းတို့ ရေတွင်းပြိုင်၍တူးကြရာ တပည့်က အသာရ အနိုင်ရ၍"တပည့်သာတွင်း(တပဲ့သာတွင်း)"ဟုခေါ်ကြရာမှ နောက်တွင် **"တပဲသာတွင်း"**ဟု ဖြစ်လာသတတ်။

## အကဲခတ်နိုင် မှန်းဆနိုင်

ဤသို့လျှင် ရွာဦးထိပ်က ဘုရားစေတီတော်များ၊ ရွာ၏ဝန်းကျင်က သူတော်စင်ဘုန်းကြီးကျောင်းများ၊ သီလရှင်ကျောင်း ဇရပ်တန်ဆောင်းများ၊ ရေတွင်းရေကန်များဖြင့် ခမ်းနားပြည့်စုံကြသည်ကို ထောက်ဆခြင်းအားဖြင့် အပွေးမြင် အပင်သိ၊ အသွေးမြင် အသွင်သိဟူဘိသကဲ့သို့ အစဉ်အလာကပင် ဘာသာရေး၌ မည်မျှလေးစားခဲ့ကြသည်ကို အကဲခတ်နိုင်ပေတော့သည်။

ထို့ပြင်လည်း ထိုစဉ်က သရိုင်ရွာ ရွှေတောင်ကျောင်း ဆရာတော်ကြီးဆိုသည်မှာ ရပ်ရွာ နယ်ပယ်

တစ်ခုလုံးအပေါ်၌ ဩဇာအလွန် ညောင်းတော်မူခဲ့ခြင်း, ထို့ပြင် ဤသရိုင်ရွာ တောကျောင်း၌ ပထမ ရွှေကျင်ဆရာတော်ဘုရားကြီး သီတင်းသုံးတော်မူဖူးခြင်း,ရဟန္တာသိမ်တော်၌ ဒုတိယရွှေကျင်သာသနာပိုင်လောင်း မဟာဝိသုဒ္ဓါရာမဆရာတော် ရဟန်းဘဝသို့ တက်ခဲ့ခြင်း, ရှေးအစဉ်အလာကပင် ရဟန္တာဟု ကျော်ကြားသော **အရှင်သုမေဓာ**ကိုယ်တော်မြတ် **သရိုင်မှုက်ထိရွာ**၌ သီတင်းသုံးတော်မူဖူးခြင်းစသော အရှိန်အဝါတို့ ကြောင့်လည်းကောင်း, ယခုအခါ ထရံကာဆရာကြီးက အားမာန်အပြည့်ဖြင့် ပရိယတ္တိနှင့် ရပ်ရွာယဉ်ကျေးမှုတို့ကို ဦးဆောင်နေသော ကြောင့်လည်းကောင်း အရှိန်အဝါ လွန်စွာကြီးမားသော သမယဟု ဆိုရပေမည်။

## သရအိုင်မှ သရိုင်ဖြစ်

**မဟာစေတီလှဘုရား**ဝင်းအတွင်းရှိ ကျောက်စာ၌ "နယ်သူနယ်သားများ၏ အားထားရာ, သားငှက်တိရစ္ဆာန်တို့၏ ပျော်မြူးရာ ကြာမျိုးငါးပါးနှင့်ပြည့်စုံသော ကြီးကျယ်သောရေအိုင်ကြီးကို **သရအိုင်**ဟု ခေါ်၏၊ (သရ-ရေအိုင်)နှစ်ကာလကြာညောင်းသောအခါ "ရ"ကို အိုင်သို့ကပ်၍ "သရိုင်"ဟု ခေါ်လာကြ၏၊ ထိုရေအိုင်ကြီးအနီး၌ တည်ရှိသောရွာသဖြင့် **"သရိုင်ရွာ"**ဟု ခေါ်တွင်လာကြောင်း ဖော်ပြထားသည်၊ လယ်ယာကိုင်းကျွန်း စိုက်ခင်းပျိုးခင်းတို့ကလည်း ကောင်းမွန်ကြသောကြောင့် အများအားဖြင့် စီးပွားခနေ ပြည့်စုံကြ၏၊ လူကြီးလူကောင်း ပေါ်များကြလေသည်။

မောင်ဌေးလွင်တို့၏ မွေးမေသည် ဤအသိုင်းအဝန်းမှဖြစ်၏၊ ဘုရားဒါယကာ ကျောင်းဒါယကာ၏ သမီးပင်ဖြစ်လေသည်၊ မောင်ဌေးလွင်တို့ ဖခင်ဘက်ကလည်း ဘုရားဒါယကာ ကျောင်းဒါယကာများပင် ဖြစ်ကြ၏၊ ဤမိဘနှစ်ပါးမှ မောင်ဌေးလွင်ကလေးကို ပေါက်ဖွားပေးလိုက်သည်၊ သို့ဖြစ်၍ ဤအသိုင်းအဝန်းမှာပင် မောင်ဌေးလွင်ကလေးကြီးဖြင်းခဲ့ရပြီး မောင်ဌေးလွင်ကလေး၏ဘဝအစနှင့်မောင်ဌေးလွင်ကလေး၏ မွေးမေ့ရွာကား ဤသို့ ဤနှယ်သာတည်း။

မောင်ဌေးလွင်တို့မှာ မွေးချင်းညီအစ်ကိုမောင်နှမ လေးယောက်ရှိကြသည်။

၁။ **မောင်ဌေးလွင်**

၂။ **မရွှေတင်**

၃။ **မောင်ဌေးတင်**

၄။ **မောင်ဘစိုင်**တို့ဖြစ်ကြ၏။

အစဉ်အတိုင်းဖြစ်၍ မောင်ဌေးလွင် အကြီးဆုံးဖြစ်သည်၊ အကြီးဆုံးဖြစ်သော သားကြီးသည် ယခုအခါဆရာကောင်း သမားကောင်းတို့အထံ ချဉ်းကပ်မိပြီးလျှင် သာသနာ့ဘောင်သို့ ဝင်ရန် ရှေးရှုလျက် သုတ်စဉ် သုတ်နက်တို့ကို ကျက်မှတ်နေသည်မှာ အတော်ပင် အရှိန်ရနေလေပြီ၊ သင်္ကန်ကုန်၍ နာမ်သို့ ကူးရသောအခါ အထူးရွှင်ပျ ဝမ်းသာရလေ၏။

မိခင် ဒေါ်အုန်းလှိုင်ကပင်... "ဘယ့်နှယ်လဲ ကိုဇောတိ, ရှင့်သားကြီးကတော့ ဘုန်းကြီးလုပ်တော့မယ် ထင်တယ်၊ ပုံကလည်း ဘုန်းကြီးပုံပဲ၊ အခုဆို ဘုန်းကြီးစာတွေ အတော်ရနေပြီဆိုပဲ၊ ရှင်တို့ ကျွန်မတို့မှာ အသက်ကြီးလာရင် ပြုစုလုပ်ကျွေးဖို့, ပြီးတော့ ကျွန်မတို့ရဲ့ စည်းစိမ်ဥစ္စာ အမွေအနှစ်တွေကို ဆက်လက်စံစားဖို့ဆိုတဲ့ နောင်ရေးနောင်တာတွေက ရှိသေးတယ် မဟုတ်လား" ဟူ၍ ကလေးအဖေကို အကဲစမ်းကြည့်မိသည်။

ထိုအခါ "အိုကွာ...အဲဒါတွေက အသာနေစမ်းပါ၊ မြင့်မြတ်တဲ့လမ်းကို ဦးတည်သွားနေတဲ့ဥစ္စာပဲ"ဟု ဖခင်ဦးဇောတိက ပြန်လည် ဟန့်တားရလေသတတ်၊ စင်စစ်ကား မိဘနှစ်ပါးလုံးကပင် သားငယ် သာသနာ့ဘောင်သို့ ဝင်မည်ကို နှစ်လိုကြည်ဖြူကြသည်သာ တည်း။



ထရံကာဆရာကြီး (၁၂၀၇–၁၂၈၇)

**ဘမျိုးဘိုးတူ တလူလူဖြစ်လိမ့်** ထို့နောက်ပိုင်းတွင် ထရံကာဆရာကြီးသည် ၁၂၇၂-ခုနှစ်၌ စစ်ကိုင်း သီလရှင်တို့၏ ပင့်ဖိတ်ချက်အရ စစ်ကိုင်းတောင်ရိုးသို့ ကြွကာ စာပေများကို ပို့ချနေခဲ့သည်၊ ထိုအခါ ဆရာကြီးမှာအသက် ၆၅-နှစ် ရှိလေပြီ၊ ဆရာကြီး၏ စာပေပို့ချမှု ကောင်းမွန်ကြောင်းဂုဏ်သတင်းသည် အနယ်နယ်အရပ်ရပ်သို့ ထုံသင်း၍ နေခဲ့ရာ ၁၂၇၉-ခုနှစ် ဆရာကြီးအသက် ၇၂-နှစ်အရွယ်တွင် မြန်မာပြည်ကို အုပ်ချုပ်သော ပဉ္စမမြောက်ကျောင်းဘုရင်၏ **"အဂ္ဂမဟာပဏ္ဍိတ"** ဘွဲ့ တံဆိပ်အပ်နှင်းခြင်းကို ခံရသည်။

ဤသို့လျှင် ဆရာကြီးသည် ယခင်က **ရာဇဂုရု** တံဆိပ်နှစ်တန်နှင့် ယခု အဂ္ဂမဟာပဏ္ဍိတဘွဲ့ တံဆိပ်တစ်တန် ပေါင်း သုံးတန်ကို လက်ခံရရှိသော ပုဂ္ဂိုလ်ထူးကြီးဖြစ်ပေ၏၊ မင်းတုန်းမင်း, သီပေါမင်း, အင်္ဂလိပ်ကျောင်းဘုရင် မင်းသုံးဆက်တို့၏ အပူဇော်ခံ ဆရာကြီးဟု ဆိုရပေမည်၊ ဆရာကြီးသည် ၁၂၈၇-ခုနှစ် အသက် ၈၁-နှစ်အထိ နေ့စဉ်မပြတ် ပရိယတ်စာပေများကို ပို့ချသွားနိုင်လေသည်။

ဆရာကြီး၏မြေး မောင်ငွေးလွင်ကလေးကား သရိုင်ရွာ ပင်းကျောင်း ဆရာတော်ဘုရားကြီး၏ ထံပါး၌ ထူးခြားသော လှ့လ, စူးရှသော သူ့အသိကလေးဖြင့် တွေးကာ တောကာ အရာရာဝယ် ဖျတ်ဖျတ်လတ်လတ် ရှိနေ၏၊ ပိဋကတ်၏အခြေခံတို့ကို သင်အံ လေ့ကျက်နေခဲ့ရာ အချိန်ကြာလာသည်နှင့်အမျှ အရည်အသွေးတို့လည်း တောက်ပလာသည်ဟု ဆိုရပေမည်၊ ယခုအခါ သန္ဓိမှ နာမ်, နာမ်မှ ကာရက, ကာရကမှ သမာသ်, သမာသ်မှ တဒ္ဓိတ်သို့ပင် တရိပ်ရိပ် တက်လာနေသည်၊ သူ့အထာ သူ့သတ္တိတို့ကား ဘကြီးဖြစ်သူ ထရံကာဆရာကြီး, အဘိုးဖြစ်သောမဟာဝိသုဒ္ဓါရုံဆရာတော်ကြီးတို့နည်းတူ တလူလူဖြစ်မည့် ကလေးပေတကား။

## ဆရာတပည့် လက်ကျညီညီ

**"ပုဂ္ဂိုလ်တစ်ယောက်, တံခွန်ဆောက်၍, အထက်တန်းသို့ ရောက်သည်"**ဆိုရာ၌ ထိုပုဂ္ဂိုလ်တစ်ဦးတည်းတော်နေ၍ မဖြစ်နိုင်ပါ၊ ပတ်ဝန်းကျင် အသင်အပြကောင်း, အမှီအခိုကောင်းလည်း ရှိမှသာ ဖြစ်လာနိုင်ပါသည်၊ ယခု မောင်ငွေးလွင်ကလေးမှာ ဆရာသမားကောင်း, အမှီအခိုကောင်း, ဥပနိဿယကောင်း ရရှိနေလေပြီ၊ မလွဲမသွေ ကြီးပွားနိုင်ဖို့ အခြေအနေ၌သာ ရပ်တည်နေပြီတည်း။

ပင်းကျောင်းဆရာတော်ကြီးနှင့်မောင်ငွေးလွင် ဆရာတပည့်နှစ်ဦး လက်ကျညီကြ၏၊ ဆရာက ယုယုယယ သင်ပြစောင့်ရှောက် ချီးမြှောက်သလို တပည့်ကလည်း အပြည့်အဝ အတိအကျ အမိအရ လိမ္မာယဉ်ကျေးစွာ ခံယူနေလေပြီ။

မောင်ငွေးလွင်ကလေးသည် ၁၀ - နှစ်အရွယ် ရောက်လာခဲ့ပြီ ဖြစ်၏၊ စာပေတော်ခြင်း, စိတ်ထားကောင်းခြင်း, ဆက်ဆံရေးရည်မွန်ခြင်း, ကြီးသူတို့ကို ရိုသေလေးစားတတ်ခြင်း, ဖျတ်လတ်ခြင်း, မျက်နှာရွှင်ခြင်း, အဆစ်အပိုင်းကျကျ စကားပြောတတ်ခြင်း စသော အရည်အချင်းကလေးတို့ကြောင့် ဆွေမျိုးများက ဝိုင်း၍ ချစ်ခင်ကြ၏၊ ညီအစ်ကို မောင်နှမတို့က ဦးစားပေးကြသည်၊ ပတ်ဝန်းကျင်က အသိအမှတ်ပြုကြ၏၊ အဘိုးအဘွားတို့က ဂုဏ်ယူကြသည်။

ထို့ကြောင့်ပင် မောင်ဌေးလွင်ကလေး၏ဘဝမှာ ကျေနပ်စရာများဖြင့် အပြည့်အဝ ချမ်းချမ်းသာသာ ရရှိခဲ့လေသည်၊ ၁၀-နှစ်အရွယ် မောင်ဌေးလွင် ကလေးကား အညာဒေသ၏ ယဉ်ကျေးမှုအတိုင်း ဆံရစ်ဝိုင်း ဆံထုံးကလေးဖြင့် ဆွေမျိုးတို့၏အလယ် တွင် ချစ်စဖွယ်ကောင်းနေတော့သည်။

သရိုင်ရွာ ပင်းကျောင်း ဆရာတော်ကြီးသည် အမြော်အမြင်ကြီးမားတော်မူ၏၊ မောင်ဌေးလွင် ကလေးအား ပိဋကတ်ဗိမာန်တက်ရန် လှေကား-သဒ္ဒါကျမ်းများကိုချည်း သင်ကြားပေးထားသည် မဟုတ်သေး။

"စိတ်ထားကောင်း၍ ပျော့ပျောင်း နူးညံ့ကာ စေတနာ သဒ္ဓါတရား တိုးပွားဖို့လည်း လိုအပ်သေး သည်"ဟု မြော်မြင်လေသလော မပြောတတ်ပါ၊ တစ်ချိန်တွင် သဒ္ဒါကိုသင်ပေး၍ အခြားတစ်ချိန်တွင် "တေ-ဇ-သု-နေ-မ, ဘူ-စံ-နာ-ဝိ-ဝေ" ဟူ၍ ခေါင်းစဉ်ရှိသော ဇာတ်တော်ကြီးဆယ်ဖွဲ့ကိုပါ ဆရာတော်ကြီးက စနစ်တကျ တစ်စတစ်စ သင်ပြ ပေးတော်မူသေးသည်။

ဤသို့လျှင် သဒ္ဒါကြီးနှင့် ဇာတ်တော်ကို တွဲဖက် သင်ပြလာခဲ့ရာ တစ်ခုသော ဆောင်းအခါကာလ တွင် ဖြစ်၏၊ ဆရာ တပည့် နှစ်ဦး စာချ စာတက် နေကြသည်၊ နေ့အား ရက်အား များများ မယူကြပေ၊ စေတနာဗလဝဖြင့် ဆရာက သင်ပြနေ၏၊ မောင် ဌေးလွင်ကလေးက နှုပ်တရွတ်ရွတ်ဖြင့် သမာသ်ရုပ် တွက်နေသည်၊ ဆရာတော်ကြီးက သူ့တပည့် ပညာ ထူးပုံကို ကြည်နူးနေဟန် ရှိ၏၊ အပေါ်စီးက ပြုံးပြုံး ကြီးကြည့်နေသည်၊ တပည့်ငယ်ကလည်း သူ့အား သူ့အင်ဖြင့် ပင်လယ်ကြီးကို ကူးသည့်အလား ကျူးလား ကျားလား ကြိုးစားနေလေသည်။



# ဒုတိယဆယ်စုနှစ်

## ၁၂၇၁–၁၂၈၁



အရှင်ဇနကာဘိဝံသ၏ သက်တော် (၁၈)နှစ် ပထမကြီးတန်းအောင်
ရှင်သာမဏေဘဝပုံတော်

# ဘဝမြင်ကွင်း ကျယ်ဝန်း၍လာ

## မန္တလေးရွှေမြို့တော်ကြီးသို့

မောင်ငွေးလွင်သည် ရှစ်နှစ်အရွယ်မှ စတင်၍ သဒ္ဒါကြီးတစ်မျိုးတည်းသာ သင်ယူလာခဲ့ရာ ယခုအခါ ဆယ်နှစ်ကျော်ကျော်ပင် ရှိလာလေပြီ၊ သင်ယူလာခဲ့သည်မှာလည်း သန္ဓိ နာမ် ကာရက သမာသ် တဒ္ဓိတ် အာချာတ် ကိတ်သို့ပင် ရောက်နေလေပြီ၊ မင်းကွန်းတောင်ရိုးမှာ တစ်ဝမ်းကွဲဒေါ်လေးညီအစ်မနှစ်ယောက်က သီလရှင်ဝတ်နေကြသည်၊ မင်းကွန်းတောင်ရိုးသည်... ရဟန်း, သာမဏေ, သီလရှင် သူတော်စင် ယောဂီတို့ တောမှီမွေ့ရာ ဝနာမြိုင်တန်းဖြစ်၍ ချမ်းမြေ့ဖွယ်ကောင်းသည်ဟု ပြောဆိုချီးမွမ်းကြ၏၊ တစ်နေ့တွင် ထိုသီလရှင်များထံသို့ သွားမည့် သီလရှင်တို့ အမေ, မောင်ငွေးလွင်တို့ အဘွားလေးက "ငါ့မြေး...အလည်လိုက်မလား"ဟု ခေါ်သဖြင့် အပျော်လိုက်သွားခဲ့သည်။

မောင်ငွေးလွင်၏ ဖခင်သည် ထိုစဉ်အခါက လယ်သမားတစ်ပိုင်း, ကုန်သည်တစ်ပိုင်း ဖြစ်နေ၏၊ ထို့ကြောင့် စပါးရောင်းရန် လှေကြီးနှစ်စင်းနှင့် သစ်ဆိမ့်ကြီးမှ မန္တလေးကို ဆင်းလေ့ရှိသည်။

ထို့ကြောင့် သားရှိရာ မင်းကွန်းသို့ဝင်လာပြီးလျှင် သားကိုပါ မန္တလေးသို့ အလည်အပတ်ခေါ် သွားခဲ့၏၊ မန္တလေးရောက်သောအခါ မောင်ငွေးလွင်က နေရစ်ချင်ပါသည်ဆို၍ ဦးလေးဦးပဉ္စင်းကြီးထံ ထားခဲ့တော့သည်၊ ထို့နောက် ဦးလေးဦးပဉ္စင်းကြီးထံမှ သဒ္ဒါကြီး ဥဏာဒ်ကို ဆက်၍ တက်နေ၏၊ မောင်ငွေးလွင်ကား မိမိရွာမှတစ်ဆင့် မန္တလေးမြို့ကြီးသို့ပင် ရောက်နေရသဖြင့် ဘဝမြင်ကွင်းကြီး ကျယ်ဝန်းလာခဲ့ရလေပြီ။

## ဆရာတော်ကြီး မကျေနပ်၍

မောင်ငွေးလွင်၏ ဖခင်သည် မန္တလေးမှာသားကို ထားခဲ့သောကိစ္စကို ခပ်ပေါ့ပေါ့ပင် စီစဉ်၍ ရွာသို့ ပြန်ရောက်မှ အကျိုးအကြောင်းကို လျှောက်ထားသောအခါ ရပ်ရွာ မူလပင်းကျောင်းဆရာတော်ကြီးက အကြီးအကျယ် ဒေါ်ပွတော်မူလေ၏။

ဤအကြောင်းများကို မန္တလေးမှ မောင်ငွေးလွင်ကြားသိရ၏၊ နောက်တစ်ခေါက် ဖခင်ကြီး မန္တလေးသို့ စပါးရောင်းလာသောအခါ မောင်ငွေးလွင်သည် ဖျားနေခိုက်လည်း ဖြစ်, ရပ်ရွာဆရာတော်ကြီးက မကျေနပ်သည်လည်း ဖြစ်သောကြောင့် ရွာသို့ပြန်၍ လိုက်ခဲ့ရလေသည်။

ရွာပြန်ရောက်သောအခါ သဒ္ဒါကြီးက ကုန်လုလု ဖြစ်နေလေပြီ၊ ထို့ကြောင့် ကုန်အောင်ဆက်ပြီးတက်ရ၏၊ သဒ္ဒါကြီးကုန်သောအခါ ဆရာတော်ကြီးက သင်္ဂြိုဟ်ကို ဆက်လက် သင်ကြား ပို့ချပေးသည်။

**လူတွင်တစ်ယောက်,**<br>
**ဆိုရလောက်အောင်,**<br>
**ထွန်းတောက်မည့်သူ,**<br>
**ထိုသည့်လူကား,**<br>
**ငယ်မှုငယ်သွေး,**<br>
**ငယ်ကလေးက,**<br>
**ဘိုးဘေးလည်းစောင့်,**<br>
**မျိုးလည်းစောင့်၍,**<br>
**စောင့်မည့်အရာ,**<br>
**တွေ့မြဲသာတည့်။**

ဤသို့လျှင် နောင်တစ်ချိန်တွင် အညွန့်တလူလူ တိုးတက်လာမည့် မောင်ငွေးလွင်ကလေးမှာ မိဘများ,အဘိုးအဘွားများ,ဆရာသမားများ,ဆွေမျိုးများ, အဖက်ဖက်က စောင့်ရှောက်မည့်သူ, ချီးမြှောက်မည့်သူတွေ ရနေပါလေတော့သည်။

## အဘယာရာမဆရာတော်လောင်းနှင့်တွေ့

တစ်ခါသော် သရိုင်ရွာ ပင်းကျောင်းသို့ သိမ်သမုတ်ကိစ္စဖြင့် မန္တလေးမှ မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီး ကြွလာတော်မူဖူး၏၊ အဘယာရာမဆရာတော်လောင်း စာချဘုန်းကြီး **ဦးအဂ္ဂဓမ္မ**နှင့် အခြားသော စာချဘုန်းကြီးများ, ဓမ္မကထိကများပါ ပါလာကြ၏၊ ထိုစဉ်က အဘယာရာမဆရာတော်လောင်း စာချဘုန်းကြီးက မောင်ဒွေးလွှင် ကိုင်နေကျသဒ္ဒါကြီး စာအုပ်ကို တွေ့၍ မောင်ဒွေးလွှင်အား သဘောကျ၏၊ ရုပ်အနည်းငယ်တွက်ပြရန် စမ်းသပ်သည်၊ တွက်ပြရ၏၊ တွက်ပြနိုင်၍ ချီးကျူးတော်မူသည်၊ အဘယာရာမဆရာတော်လောင်း စာချဘုန်းကြီးက "မန္တလေးကို လာနေပေါ့ကွာ"ဟု မိန့်ကြားတော်မူသွား၏၊ ထိုစကားကြောင့် မောင်ဒွေးလွှင်ကလေး အားတက်နေမိသည်။

## ဒုတိယအကြိမ် မန္တလေးသို့

အချိန်အားဖြင့်၁၂၇၃-ခု, မောင်ဒွေးလွှင်အသက် ၁၂-နှစ်ပြည့်လုလုတွင် ဖြစ်၏၊ တစ်နေ့တွင် သရိုင်ရွာ ရွှေတောင်ကျောင်းက ဦးပဥ္စင်းတစ်ပါး မန္တလေးမှ အရပ်သို့ပြန်လာ၏၊ ထိုအခါ ပင်းကျောင်းဆရာတော်ကြီးက မောင်ဒွေးလွှင်၏ မိခင်ကို ခေါ်၍ "နင့်သားကို မန္တလေးမှာ စာသင်ရအောင်ထည့်လိုက်"ဟု အမိန့်ချ၏၊ ထို့ကြောင့် ထိုဦးပဥ္စင်းနှင့် မန္တလေးသို့ ဒုတိယအကြိမ် ရောက်ရလေသည်၊ ထိုဦးပဥ္စင်း၏ဘွဲ့တော်မှာ **ဦးရာဇဉ** ဖြစ်၏၊ ထိုအချိန်က မောင်ဒွေးလွှင်မှာ သဒ္ဒါနှင့်သင်္ဂြိုဟ် ကုန်နေသည့်အပြင် ပုဒ်စစ်ကိုပင် တချို့တစ်ဝက် ရနေပေပြီ၊ ... မောင်ဒွေးလွှင်တို့သည် မန္တလေး အနောက်ပြင် ဝိသုဒ္ဓါရုံတိုက် ဆီးပင်ကျောင်းမှာ နေကြရ၏။

တစ်နေ့သောအခါ အဘယာရာမဆရာတော်လောင်း စာချဘုန်းကြီးနှင့်တွေ့ရသည်၊ ဘုန်းကြီးက သဘောကျသည့်လက္ခဏာဖြင့် "မင်း ရောက်လာပလားဟေ့"ဟု နှုတ်ဆက်တော်မူ၏၊ မောင်ဒွေးလွှင်ကလေးကလည်း ဟုတ်မှန်ကြောင်း ဝန်ခံသည့်အနေဖြင့် ပြုံး၍ လက်အုပ်ချီကာ ခေါင်း ညိတ်၍ တုံ့ပြန်လိုက်ရသည်။

သို့သော် မောင်ဒွေးလွှင် နေသည့် ကျောင်းနှင့် အဘယာရာမဆရာတော်လောင်းနေသည့်ကျောင်းတို့က တခြားစီဖြစ်နေ၍ အဆက်အသွယ်သိပ်မရခဲ့၊ ထို့နောက် မကြာခင် အဘယာရာမ ဆရာတော်လောင်းလည်း သက္ကတသင်ရန် အိန္ဒိယသို့ ကြွသဖြင့် မတွေ့ရတော့ပေ။

## မရေမရာ ဇဝေဇဝါ

မောင်ဒွေးလွှင်သည် ဦးပဥ္စင်းဦးရာဇဉနှင့်အတူ ဝိသုဒ္ဓါရုံ ဆီးပင်ကျောင်းမှာနေလျက် ပညာဆက်လက်၍ သင်ကြားနေ၏၊ သို့သော် မယ်မယ်ရရ ပိုင်ပိုင်နိုင်နိုင် ဆရာမရှိသဖြင့် မောင်ဒွေးလွှင်၏ ပညာရေးမှာ မရေမရာ ဇဝေဇဝါ အခြေအနေမှာသာ ရှိတော့၏၊ တစ်နေ့တွင် မြောင်းမြဆရာတော်ဖြစ်လာမည့် စာချဘုန်းကြီးတစ်ပါး ဝိသုဒ္ဓါရုံတိုက်အတွင်း စည်ရှင်ကျောင်းမှ မောင်ဒွေးလွှင်တို့ နေထိုင်သည့် ဆီးပင်ကျောင်းသို့ပြောင်းရွှေ့လာ၏၊ ၁၂၇၄-ခုနှစ်က ဖြစ်၏၊ ဘွဲ့တော်မှာ **ဦးဉာဏာဘိဝံသ**, သကျသီဟ မွှောစရိယ သိက္ခာတော် ငါးဝါရ ဖြစ်သည်၊ မောင်ဒွေးလွှင်တို့အဖို့ ကံကောင်းခြင်းပေတည်း။

ဆီးပင်ကျောင်းရှိ စာသင်သားများရော, မောင်ဒွေးလွှင်ကို ခေါ်လာသည့် ဦးရာဇဉပါ ထိုစာချဘုန်းကြီး ဦးဉာဏာဘိဝံသထံမှာ စာတက်ကြရ၏၊ ထိုစဉ်က ဝိသုဒ္ဓါရုံတိုက်ရှိဦးပဥ္စင်းကိုရင်ကျောင်းသားများသည် ညဘက်တွင် အလယ်တိုက်ကြီး အောက်မှာ စုပြီး စာပြန်ကြရ၏၊ ရုပ်တွက်ပုံကို အချင်းချင်း

မေးကြ ဖြေကြ၏၊ မောင်ငွေးလွင်ကား စာအရအမိ များသော်လည်း သူတို့လို မဖြေတတ်, ရုပ်များများ မတွက်တတ်, သို့အတွက် အနီးအနားရှိ ဦးပဥ္စင်း တစ်ပါးရှေ့မှာ ညည်းမိသည်။

"တပည့်တော်တော့ ဒီဘဝမှာ ရုပ်ကောင်းကောင်း တွက်တတ်တော့မှာ မဟုတ် တော့ပါဘူး"ဟူ၍ ဖြစ်၏၊ အသံကလည်း ဝမ်းနည်းသံ ပါနေမိသည်။

## မြောင်းမြခြေရင်း ရောက်ရခြင်း

ထိုဦးပဥ္စင်းက မြောင်းမြဆရာတော်လောင်း စာချ ဘုန်းကြီးအား"ကောင်ကလေးက ရုပ်မတွက်တတ်လို့ ညည်းနေရှာတယ်"ဟု သွား၍ လျှောက်လေ၏၊ ထို အခါ မြောင်းမြဆရာတော်လောင်း စာချဘုန်းကြီးက ခေါ်၍ ကိုရင်တစ်ပါးဆိုနေသည့် နာမ်ဂိုဏ်းကို အလိုက်ခိုင်းသည်၊ မောင်ငွေးလွင် ဝမ်းသာရ၏၊ အားတက်လာရ၏၊ ထိုကိုရင်နှင့် တစ်ခေါက်ကုန် သောအခါ မောင်ငွေးလွင်တစ်ဦးတည်း သီးသန့် နောက်တစ်ခေါက် ဆိုရပြန်သည်၊ မြောင်းမြဆရာ တော်လောင်းက မောင်ငွေးလွင်၏ အစွမ်းအစကို အကဲခတ်မိလေပြီ၊ နာမ်ဂိုဏ်းစဉ် ပဒမာလာကို နှစ်ခေါက်ကုန်အောင်ဆိုပြီးသောအခါ မောင်ငွေးလွင် က "ငါမသိတဲ့ နာမ်ရုပ်ရယ်လို့ မရှိတော့ဘူး"ဟု အောက်မေ့လာလေသည်၊ နာမ်ဂိုဏ်းကိုလည်း ည ဘုရားဝတ်တက်အပြီးမှာ အမြဲပြန်ရသည်၊ ထိုစဉ်က မောင်ငွေးလွင် အသက် ၁၃-နှစ်ထဲ ဝင်လာလေပြီ။

ဤအကြောင်းအရာများနှင့်ပတ်သက်၍ ဆရာ တော် အရှင်ဇနကာဘိဝံသက တစ်ခါတုန်းက စာချ ရင်း အမိန့်ရှိဖူး၏။

"ငါငယ်ငယ်တုန်းက ညဘုရားဝတ်တက်ပြီးရင် နာမ်ဂိုဏ်းပြန်တယ်၊ **{နာမ်ရုပ်ကြေမွမှ ဂါထာ စုဏ္ဏိယ အစီအကုံး အနှုန်းအဖွဲ့ မြန်တက်, ကျမ်းဂန်တို့၌ အနက်ထင်မြင်, သဘောညာဏ်သက်ဝင် စူးရှိနိုင် သောကြောင့်}** တစ်ခါလာလည်း ဒါ, တစ်ခါလာလည်း ဒါ, နောက်တစ်နေ့လည်း ဒါ, နောက်တစ်နေ့လည်း ဒါ, ကြာတော့ မြောင်းမြဆရာတော်လောင်းက... "တော်ပါတော့ဟယ် နင့်ဟာ,ဒီလောက်ဆိုကြေညက် နေရောပေါ့, မမေ့နိုင်တော့ပါဘူး"လို့ တားမြစ်ယူရ သည်အထိ ပြန်တာ"ဟု မိန့်၏။

မြောင်းမြဆရာတော်လောင်း စာချဘုန်းကြီးက မောင်ငွေးလွင်အား နာမ်ဂိုဏ်းနှစ်ခေါက်ကုန်သည့် အခါ အာချာတ်ဂိုဏ်းစဉ်ကိုလည်း ချပေးသည်၊ ရူပ သိဒ္ဓိကိုလည်း လိုက်စေသည်၊ ဓမ္မပဒကိုမူ သီးသန့် ချပေး၏၊ တစ်ဦးတည်း တက်ရသည်။

## တိုးတက်ရေးလမ်းမပေါ် ခြေချမိ

မောင်ငွေးလွင်၏ပညာရေးမှာ စောစောက မရေ မရာ ဇဝေဇဝါ ဖြစ်ခဲ့ရ၏၊ အားငယ်ခဲ့ရ၏၊ ယခုမူ ဆရာကောင်းနှင့်တွေ့ရလေပြီ၊ စာချဘုန်းကြီးက ရူပ သိဒ္ဓိချသောအခါ စာလိုက်သံဃာများစွာလိုက်ကြ၏၊ မောင်ငွေးလွင်က ကျောင်းသားငယ်ဖြစ်၍ နောက်ဆုံး အစွန်က လိုက်ရ၏၊ စာချဘုန်းကြီးက ချပေးသမျှ နိယာမ်တွေကို ရနေသည်၊ သူ့နေရာနှင့်သူ စပ်ဆိုင် လာသောအခါ စာချဘုန်းကြီးက "ရွတ်ပြစမ်း"ဟု ခိုင်းတတ်၏၊ အများက မရ၍ မရွတ်နိုင်သောအခါ မောင်ငွေးလွင်က သွက်သွက်လက်လက် ရွတ်ပြ လိုက်သည်၊ ထိုအခါ "အာဂကောင်လေးပဲ"ဟူသော အကြည့်မျိုးဖြင့် ကိုယ်တော်တွေက နောက်ကိုပြန်၍ လှည့်လှည့်ကြည့်တတ်ကြသည် ဟူ၏။

မောင်ငွေးလွင်သည် ယခုအခါ မျက်နှာပွင့်နေ လေပြီ၊ အတော်လည်း အားတက်နေလေပြီ၊ အများ ကလည်း စာတော်သောကလေးဖြစ်၍ အရေးပေး နေကြလေပြီ၊ အသိအမှတ် ပြုနေကြလေပြီ၊ ရူပသိဒ္ဓိ ကို အများနှင့်လိုက်ရသော်လည်း ဓမ္မပဒကိုကား မောင်ငွေးလွင်တစ်ဦးတည်း ဆိုရသဖြင့် အတော် ရဲနေလေပြီ။

## ဂန္ဓာရုံဆရာတော် ခြေတော်ရင်းသို့

မောင်ဌေးလွင် ၁၃-နှစ် ပြည့်လုလုအရွယ်တွင် မန္တလေးမြို့၌ ပလိပ်ရောဂါကြီးဖြစ်လေ၏၊ ထို့ကြောင့် မြောင်းမြဆရာတော်လောင်းနှင့် အတူ စစ်ကိုင်း တောင်ရိုး မဟာဂန္ဓာရုံချောင်သို့ သွား၍ ပုန်းရှောင်ကြရသည်၊ ဦးပဥ္စင်း ဦးရာဇဉလည်း လိုက်ပါလာ၏၊ စစ်ကိုင်း၌ ချမ်းအေးဆရာတော်ကြီးကို မှီခိုလျက် ဓမ္မာရုံချောင်မှာ နေကြရသည်၊ သက်သတ်လွတ်ဟင်းဖြင့် စားကြရ၏၊ ချမ်းအေးဆရာတော်က ဂရုစိုက်တော်မူသည်၊ အားလုံးပင် စာကို တိုးတိုးသက်သာ အံကြရ၏၊ ချမ်းအေးဆရာတော်ကြီးကား မိမိကိုယ်တိုင်က ပဋိပတ်သမားဖြစ်စေကာမူ ပရိယတ်ကို အထင်မသေးသော ဆရာတော်ကြီးတစ်ပါး ဖြစ်ပါသည်၊ မောင်ဌေးလွင်အတွက် ထပ်ဆင့်ကံကောင်းဖို့ အချက်ဝင်လာခြင်းဟု ဆိုရပါမည်၊ မောင်ဌေးလွင်သည် ပရိယတ်ဆရာတော်များ၏ ခြေရင်းတွင် နေလာခဲ့ရာယခုအခါ ပဋိပတ်ဆရာတော်များ၏ ခြေရင်းတွင်လည်း မှီခိုဖို့ အခွင့်ပေါ် လာခြင်းဖြစ်၏၊ ပဋိပတ်အပေါ် ငယ်ငယ်ရွယ်ရွယ်ကပင် မောင်ဌေးလွင် လေးစားဖို့ ဖန်လာရခြင်းဖြစ်ပါသည်၊ မောင်ဌေးလွင် စာတော်သည်ဟု သိရသောအခါ ဆရာတော်ကြီးက ပို၍ ဂရုစိုက်တော်မူ၏၊ ထမင်းစားပုံစားနည်းကို သင်ပေးတော်မူသည်။

နောက်တစ်ချိန်တွင် ဒုတိယ မဟာဂန္ဓာရုံဆရာတော်ဟု တွင်လာမည့် ချမ်းအေးချမ်းဆရာတော်ကြီးက မောင်ဌေးလွင် ထမင်းစားသောအခါ အနားတွင်လာ၍ ထိုင်တော်မူ၏၊ တံပူဝါးရင်း ထမင်းလုတ်ပြင်နည်းကို ဝိနည်းတော်လာသည့်အတိုင်း ပြင်ပြီးမှ စားစေသည်၊ မောင်ဌေးလွင်အတွက် အဖက်ဖက်မှ စောင့်ရှောက်ပြုပြင်ပေးမည့် ဆရာတော်များ ရလာခြင်းပေတည်း။

## ပထမငယ် ဝင်ရောက်ဖြေဆို

ပလိပ်ရောဂါများ အတော်အတန် အေးသောအခါ မောင်ဌေးလွင်တို့ ဆရာတပည့်များ မန္တလေးသို့ ပြန်ရောက်ကြ၏၊ ထိုအခါ မောင်ဌေးလွင် အသက် ၁၃-နှစ်တင်းတင်း ပြည့်လေပြီ၊ ထိုနှစ် နယုန်လမှာ အစိုးရက ကျင်းပပေးသော ပထမငယ်တန်းစာမေးပွဲကို မောင်ဌေးလွင် ဝင်၍ဖြေ၏၊ သို့သော် မအောင်မြင်ပါ၊ မောင်ဌေးလွင်မှာ စာအရအဓိပ္ပါယ်များသော်လည်း သဘောသဘာဝကား မပိုင်ရှာသေးပါ၊ ဝင်တုန်းက အောင်မည်ဟု ထင်၍ ဝင်ခဲ့သော်လည်း ဂေဇက်တွင် မပါလာသောအခါ သူများတွေမသိအောင် စောင်ကြီးကို ခေါင်းမြီးခြုံ၍ တရှုပ်ရှုပ်နှင့် ငိုလိုက်ရသည့်ဖြစ်ခြင်း၊...နောက်တစ်နှစ် မန္တလေး၌ ပလိပ်ရောဂါ ဖြစ်ပြန်၏၊ ဦးရာဇဉ၏ ရဟန်းဒါယကာများ ရွာသို့ ပြေးကြရပြန်သည်၊ မြောင်းမြဆရာတော်လောင်းလည်း ပါ၏၊ ထိုရွာမှာ စဥ့်ကိုင်အနောက် **"ဝန်းသိုရွာ"** ဖြစ်၏၊ မောင်ဌေးလွင်သည် ဝန်းသို၌ ကိုရင်တစ်ပါးနှင့်အတူ ရူပသိဒ္ဓိတက်ကြရသည်၊ ညနေဘက်မှာ ခက်သည့်ရုပ်များကို အပြန်အလှန် မေးကြရ, ဖြေကြရ၏၊ ထို့ကြောင့် ရူပသိဒ္ဓိကို အတော်နိုင်နင်းလာသည်၊ ဓမ္မပဒအဋ္ဌကထာကိုကား ကိုယ်တိုင်ဆိုရသည့်အတွက် အတော်ကြေညက်နေသည်၊ ဝတ္ထုကြောင်းတွေ အများကြီး သိလာသည်၊ အနက်ဉာဏ်တွေလည်း ရင့်လာသည်၊ ထိုအချိန်၌ မောင်ဌေးလွင် အသက် ၁၄-နှစ်ထဲသို့ဝင်လာလေပြီ။

## အောက်ပြည်အောက်ရွာသို့

ထိုနှစ်က မောင်ဌေးလွင် ပထမငယ်ကို ဝင်၍ ဖြေဦးမည်လုပ်သေးသည်၊ သို့သော် **"၁၅-နှစ်မပြည့်သူများ ပထမငယ် မဖြေရ"** ဟု ဥပဒေလုပ်လာသောကြောင့် ထိုနှစ် မဖြေလိုက်ရပါ၊ ပထမငယ်ပိုင်းဆိုင်ရာ စာများကား အတော်ကြေညက်နေပြီ။

ထို့ကြောင့် အနားယူသည့်အနေဖြင့် အောက်ပြည်

အောက်ရွာများသို့ ဦးရာဇည်နှင့်အတူ လည်ပတ်နေလိုက်သည်၊ မြောင်းမြမြို့နယ်က **သုတန**ကျေးရွာ၊ တူးမြောင်းကျေးရွာနှင့် လပွတ္တာမြို့တို့ ဖြစ်ကြ၏၊ ထိုတွင် တူးမြောင်းကျေးရွာ၌ အပျော်ဆုံးဖြစ်သည်ဟူ၏၊ ...ထိုစဉ်က မောင်ဌေးလွင်မှာ အသက် ၁၄ နှစ်အရွယ်, အသား မဖြူ မညို, ရွှေဘိုသား လူရည်သန့်သန့် မပိန်မဝ, အရပ်ဗားမောင်း အနေသင့်, မျက်ခုံး မျက်လုံး ကောင်းကောင်း, နှာတံပေါ်ပေါ်, မျက်နှာရွှင်ရွှင်, လူချစ် လူခင် ပေါ်၏၊ ဆံပင်ကောင်း၏၊ ဆံရစ်ဝိုင်း ဆံထုံးကလေးနှင့် ဖြစ်၍ အညာသား ဖြစ်ကြောင်းကို ဖော်ပြနေသလို ဖြစ်တော့သည်။

## အညာဌာနေသို့ ပြန်ရောက်လာ

မောင်ဌေးလွင်အတွက် အောက်ပြည်အောက်ရွာတို့၌ လည်ပတ်နေစဉ်တွင် စာသင်မှု စာတက်မှုကိစ္စများကား ပြတ်လပ်နေခဲ့သည်၊ စိတ်လွတ်ကိုယ်လွတ် အနားယူ အပန်းဖြေခဲ့သည်၊ ယခုအခါ အညာသို့ ပြန်လာခဲ့ပြီ၊ ယခင်နေထိုင်မြဲ ဝိသုဒ္ဓါရုံဆီးပင်ကျောင်းမှာပင် နေကြ၏၊ မြောင်းမြဆရာတော်လောင်း စာချဘုန်းကြီးထံမှာ စာဝါများ ပြန်တက်နေကြပြီ၊ ထိုစဉ်တွင် မောင်ဌေးလွင် အဖျားရောဂါ အကြီးအကျယ်ဖြစ်တော့၏၊ ရွာမှ မိဘများ လိုက်လာ ပြုစုကြရ၏၊ မကြာမီ ရောဂါ သက်သာလာသည်၊ တစ်နေ့တွင် ရောဂါလုံးဝကင်းစင်သွားလေ၏။

ထို့ကြောင့် အချိန် ရှိသေးသဖြင့် မိဘများသည် ရထားအမီ ပြန်ကြရန် စီမံပြီးလျှင် ပြန်သွားကြ၏၊ ထိုအခိုက် ဦးရာဇည အိပ်ပျော်နေ၍ ဝပ်ချနှုတ်ဆက်ခြင်း မပြုခဲ့ရ၊ အိပ်ရာမှနိုးသောအခါ "သူ့ကိုဝပ်မချ နှုတ်မဆက်ဘဲ ပြန်သွားကောင်းလား" ဟု မိဘများအပေါ် စိတ်ဆိုးတော့၏၊ "နင်လည်း လိုက်သွား, မနေနဲ့တော့"ဟု မောင်ဌေးလွင်ကိုလည်း နှင်တော့၏၊ တုတ်ဖျားခတ်တော့သည်။

## မြောင်းမြက လိုက်ခေါ်ခြင်း

မောင်ဌေးလွင်သည် အစကမှ မိဘများနှင့်ပြန်၍ လိုက်ချင်ချင်, ဦးရာဇညက နှင်သောအခါ ဖိုးကျိုးတုတ် ဖြစ်သွားတော့၏၊ ချက်ချင်း ထလိုက်ပြေးသည်၊ ရှမ်းစုဘူတာတွင် မီလေ၏၊ အကျိုးအကြောင်းကို ပြောပြသောအခါ မိဘများကလည်း ရွာသို့တိုင်အောင် ဆက်လက် ခေါ်သွားလေသည်၊ မြောင်းမြဆရာတော်လောင်း စာချဘုန်းကြီးသည် မောင်ဌေးလွင်လေး၏ တန်ဖိုးကို နားလည်၏၊ ထို့ကြောင့် ရက်များမကြာမီ သရိုင်ရွာသို့ ကိုယ်တော်တိုင် လိုက်၍ ခေါ်သည်၊ မိဘများကလည်း စာချဘုန်းကြီး၏ အရည်အချင်းကို သိပြီးဖြစ်၍ အလွယ်တကူပင် ပြန်၍ထည့်လိုက်သည်၊ မန္တလေးသို့ ပြန်၍ရောက်သောအခါ ဦးပဉ္စင်း ဦးရာဇညက မောင်ဌေးလွင်ကို အခေါ် အပြောပင် မလုပ်တော့ပေ။

တစ်နေ့တွင် မောင်ဌေးလွင်သည် သရိုင်မှ ဝက်လက်သို့ ရောက်နေသော သူ့ဖခင်ထံသို့ ခေတ္တပြန်သည်၊ ဝက်လက်ရောက်ကာမှ ဝက်သက်ပေါက်နေတော့၏၊ ရောဂါပျောက်အောင် ကုသနေရပြန်သည်။

မြောင်းမြဆရာတော်လောင်း စာချဘုန်းကြီးကလည်း ထိုစဉ်က ပဋ္ဌာန်းဆိုရန် ရွှေဘိုမြို့ မိတ္ထီလာတိုက်သို့ ရောက်နေခိုက်ဖြစ်သည်၊ ၁၂၇၆-ခု သီတင်းကျွတ် ၇-ဝါရဖြစ်၏၊ ထို့ကြောင့် ဝက်သက်ပျောက်သောအခါ မောင်ဌေးလွင်ကို သူ့အဖေက ရွှေဘိုသို့ လိုက်ပို့သည်၊ စာချဘုန်းကြီးနှင့်တွေ့ရပြန်၏၊ ထိုစဉ်က မိတ္ထီလာတိုက်မှာ သံဃာ တော် ၇ဝ-ကျော် ၈ဝ-နီးပါးခန့် ရှိ၏၊ ဆရာတော်ကြီးမှာ ကြည်ညိုဖွယ် အလွန်ကောင်းလှသည်။

## ရွှေဘိုမှာ နေနိုခဲ့စဉ်က



မူလကျေးရွာရှင်မြောင်းမြဆရာတော်

ရွှေဘိုမှာနေစဉ်က မောင်ဌေးလွင်သည်တိုက်ထဲမှ ဆွမ်းစားကျောင်းဘုန်းကြီးထံမှာ ဋီကာကျော်လိုက်၏၊ ညနေသုံးနာရီလောက်တွင် မိမိဆရာထံမှာသီလက္ခန် ပါဠိတော်နှင့်အဋ္ဌကထာကို ဆိုရသည်၊ ညဘက်တွင်မူ ယမိုက်ညဝါဆိုရ၏၊ ရောက်စကဆိုလျှင် နံနက်ပိုင်းမှာ အဋ္ဌသာလိနီကိုပင် ဆိုလိုက်ရသေး၏၊ နောက်မှ များလွန်းသည် ဆို၍ ရပ်ထားရသည်၊ ...ရွှေဘိုမှာ နေစဉ်တုန်းက နံနက် နေ့လယ် ညနေပိုင်းတို့၌ စာဝါတို့ဖြင့် အချိန်ပြည့် ရှိနေသော်လည်း ညနေ ၄-နာရီခွဲလျှင် မြောင်းမြဆရာတော်လောင်း စာချဘုန်းကြီးက ဘောလုံးပွဲသို့ သွားခွင့်ပေးတော်မူသည် ဆို၏၊ ထိုအကြောင်းကို တစ်ခါက စာချရင်း စပ်မိလာ၍ ဆရာတော်အရှင်ဇနကာဘိဝံသက ဤသို့ ပြန်လည်အမိန့်ရှိဖူးပါသည်၊ "အဲဒီတုန်းက ဘုန်းကြီးက ၁၄-နှစ်သားသာသာ-ကျောင်းသားအရွယ်ပါ၊ စာဝါတွေများလို့ အညောင်းမိပြီး ခန္ဓာကိုယ် ပိန်ချည့်သွားမှာစိုးလို့ ထင်ပါရဲ့၊ မြောင်းမြဆရာတော်လောင်းက ညနေ ၄-နာရီခွဲပြီဆိုလျှင် စာဝါကို ရပ်ထားပြီး ဘောလုံးပွဲကို အသွားခိုင်းတော့တာပဲ။

ဘုန်းကြီးကလဲ ဝါသနာပါပါ၊ ဘောလုံးပွဲကို နေ့တိုင်းရောက်တော့တာပဲ၊ ညနေ ၅-နာရီခွဲလောက် ဘောလုံးပွဲပြီးတာနဲ့ ခပ်သုတ်သုတ် ပြန်လှည့်၊ လမ်းဘေးမှာ ရောင်းတဲ့ ကုလားကြီးဆိုင်က ကုလားပဲလှော် နှစ်ပြားဖိုးဝယ်၊ လမ်းမှာ အပြေးအလွှား စားရင်း ခပ်မြန်မြန် လာခဲ့တာပဲ။

ကျောင်းရောက်တော့...ညမှာ အလွတ်ဆိုဖို့ တစ်နေ့စာလောက် ညဝါကို ခပ်မြန်မြန် ကြည့်လိုက်သေးတယ်၊ ပြီးတော့ ညမှာ အလွတ်ဆိုတာပဲ၊ အဲဒီတုန်းကနဲ့ အဲဒီမတိုင်မီကစပြီး ဘုန်းကြီးက ဘောလုံးဝါသနာပါလာတာ၊ အခုတောင် သတင်းစာဖတ်တဲ့အခါ ဘောလုံးသတင်း ပါလာပြီဆိုရင် ဖတ်မိအောင်ဖတ်လိုက်သေးတာ" ဟူ၍ နောက်ကြောင်းပြန်ကလေးများကို မိန့်ကြားတတ်ပါသည်။

## ဒုတိယအကြိမ် စာမေးပွဲဖြေ

ထိုကဲ့သို့ပင် မောင်ဌေးလွင်ကလေးတစ်ယောက် ပိဋကတ်စာပေတို့ကို ရင်ဝယ်ပိုက်၍ ပျော်ရွှင်စွာဖြင့် ပညာသင်ကြားနေခဲ့ရာမှ တပို့တွဲ ကုန်၍ တပေါင်းလသို့ ကူးပြောင်းလာသောအခါ အသက်မှာလည်း ၁၅-နှစ်အတွင်းသို့ ဝင်လာလေတော့သည်၊ စာမေးပွဲဖြေဆိုရန် ကိစ္စများလည်း ရှိသေး၏၊ ထို့ကြောင့် တပေါင်း တန်ခူး ကဆုန် နယုန်လသို့ နီးကပ်လာသောအခါ ပထမငယ်စာမေးပွဲ ဖြေဆိုရန်အတွက် မန္တလေးသို့ ပြန်ခဲ့ရပြန်သည်၊ ထိုစဉ်က စာမေးပွဲကျင်းပပေးသည့် ဌာနမှာ မန္တလေးနှင့် ရန်ကုန် နှစ်ဌာနမျှသာ ရှိသေး၏၊ ယခုတစ်ကြိမ် မောင်ဌေးလွင်ဖြေဆိုခဲ့သော ပထမငယ်စာမေးပွဲကိုကား ချောချောမောမော အောင်မြင်လိုက်ပါ၏၊ အသိဉာဏ်တို့က ရင့်ကျက်လာသောကြောင့် ဖြစ်သည်၊ ရွှေဘိုတွင် ပဋ္ဌာန်းဆိုနေခဲ့သောစာချဘုန်းကြီးသည်လည်း မကြာမီ ပြန်လာ၏၊ စစ်ကိုင်းတောင်ရိုး ရက္ခမူချောင်မှာ

ခေတ္တတည်းခိုသည်၊ ထိုအခိုက်တွင် မဟာဂန္ဓာရုံ ဆရာတော်ကြီးက. . . "ပလိပ်မြို့ကလေးမှာ လစ်လပ်နေတဲ့ ဂန္ဓာရုံ ရွှေကျောင်ကျောင်းကို လက်ခံပါ၊ အဲဒီကို သွားရောက်နေထိုင်ပြီး သာသနာ ပြုစမ်းပါ"ဟူ၍ အမိန့်ချသဖြင့် လေးစားအပ်သော ဆရာတော်၏ အမိန့်ဖြစ်သောကြောင့် မြောင်းမြဆရာတော်လောင်း စာချဘုန်းကြီးသည် မနေသာတော့ဘဲ လက်ခံလိုက်ရတော့၏၊ ထိုစဉ်က စာချ ဘုန်းကြီးမှာလည်း ရဟန်းသိက္ခာ ၇-ဝါမျှသာ ရှိသေးသည်၊ ပလိပ်မြို့ကလေးသည် မန္တလေးမြို့တော်၏ တောင်ဘက် ဒုဋ္ဌဝတီမြစ်ငယ်မြစ်အနီးတွင် တည်ရှိ၏၊ မြစ်ငယ်မြစ်ကို မျက်နှာပေး၍ မေးတင်ပြီးတည်ထားသည်၊ မြစ်ကမ်းဝဲယာတို့တွင် စိုက်ခင်း ပျိုးခင်း အသီးအပင်တို့ဖြင့် စိမ်းလန်းစိုပြည်ကြ၏၊ ဥယျာဉ်ခြံမြေ ကောင်းကြသည်၊ တိတ်ဆိတ် ငြိမ်းချမ်း၍ နေချင့်စဖွယ်ပင်ဖြစ်သည်။

ရှေးအခါက ရွှေကျောင် ဆရာတော်ဘုရားကြီးတို့ တောရဆောက်တည်ဖူး၏၊ ထို့ကြောင့်လည်း တိုက်တွန်းနေတော်မူခြင်း ဖြစ်ပါလိမ့်မည်၊ သက္ကရာဇ် ၁၂၇၆-ခုနှစ် ကဆုန်လထဲတွင် ဖြစ်၏၊ မဟာဂန္ဓာရုံ ဆရာတော်ဂူမအောင်းမီ အလျင်တစ်နှစ်ပင် ဖြစ်သည်၊ မြောင်းမြဆရာတော်လောင်း စာချဘုန်းကြီးကို ဆရာတော်ကြီးနှစ်ပါးလုံးက ပလိပ်မြို့ကလေးသို့ လိုက်ပို့ပေးတော်မူကြသည်၊ သံဃာ ၁၅-ပါးလည်း စာသင်သားအဖြစ်နောက်ကပါကြ၏၊ တစ်နိုင်တစ်မ စာချစာသင်ကျောင်းကလေး ဖြစ်၍သွားလေပြီ။

## ပလိပ်မြို့မှာ လိုက်ပါလာခဲ့

မောင်ဌေးလွင်တို့လည်း စာချဘုန်းတော်ကြီး သွားရာ အရိပ်ပမာ ပလိပ်သို့ လိုက်ပါလာကြရသည်၊ လပွတ္တာဆရာတော်လောင်း **ရှင်ကုသလ**လည်း မောင်ဌေးလွင်တို့နှင့်အတူပါ၏၊ မောင်ဌေးလွင်သည် ပလိပ်မြို့ကလေးမှာ သီလက္ခန်ပါဠိတော်နှင့်အဋ္ဌကထာကို ဆက်လက်ဆိုရ၏။

ထို့ပြင် သုတ်မဟာဝါ, သုတ်ပါထေယျပါဠိတော်နှင့် အဋ္ဌကထာများကိုလည်း (သီလက္ခန်အပြီးတွင်)ဆက်လက် ဆိုရသည်၊ ကစ္စည်းနှင့်ရူပသိဒ္ဓိကိုကား လိုက်ဝါအဖြစ်လိုက်ရသည်၊ ယမိုက် ပဋ္ဌာန်း ဆန်း အလင်္ကာတို့ကိုလည်း လိုက်လိုက်သေး၏၊ မောင်ဌေးလွင်၏ ပညာရေးမှာ အတော်ပင် အရှိန်ကောင်းနေလေပြီ၊ တိုးတက်မှန်ကန်သော လမ်းမကြီးပေါ်သို့ ရောက်နေချေပြီတကား။

## ကဗျာစပ်နည်း သင်ကြားပေးခဲ့

မြောင်းမြဆရာတော်လောင်းကား အမြော်အမြင်ကြီးမားသော ဆရာတစ်ပါး ဖြစ်တော်မူပါပေ၏၊ မောင်ဌေးလွင်ကလေးအပေါ် မည်မျှလောက် မြော်မြင်ထားသည် မသိ၊ မောင်ဌေးလွင်ကလေး ၁၃-နှစ်အရွယ်ကပင် သံပေါက်စပ်နည်း, လေးလုံးစပ်လင်္ကာသွားဖွဲ့ကုံးနည်းတို့ကို သင်ကြားပေးထားသည်၊ ထို့နောက် ပို့ ကဗျာ လင်္ကာစာအုပ်တို့ကိုလည်း လေ့လာဖတ်ကြားစေ၏၊ စာရေးကောင်းဖို့ ရည်ရွယ်တော်မူဟန်တူပေသည်၊ ရည်ရွယ်သလိုပင် နောက်ပိုင်း၌ ဖြစ်ပေါ် အောင်မြင်လာခဲ့လေ၏။

ထိုမှုမက ၁၄-နှစ်သားအရွယ်တွင်ကား ဒွေးချိုးစပ်နည်း, လေးချိုးစပ်နည်း, တေးထပ်စပ်နည်းတို့ကိုပါ သင်ပေးတော်မူပြန်သည်၊ စာရေးသားမည့် ပုဂ္ဂိုလ်များအဖို့ ဤကဗျာလက်နက်များသည် မပါလျှင် မပြီးသောလက်နက်များ ဖြစ်၏၊ ဤအချက်ကို စာချဘုန်းတော်ကြီးက မြော်မြင်ထား၍ သင်ကြားပေးတော်မူခြင်း ဖြစ်ပေလိမ့်မည်။

ထိုစဉ်တုန်းက ပလိပ်မြို့ကလေးမှာ အအေးဓာတ်များ၍ ခဏခဏ ဖျားကြသည်၊ သစ်ကြီးဝါးကြီးပေါ၍ တောအုပ် မြိုင်လျှိုသဖွယ် ဖြစ်သောကြောင့် ငှက်ဖျားရှိ၏၊ တစ်ခါတလေ တစ်ကျောင်းလုံးဖျားတတ်ကြသည်၊ ယင်းသို့သော အခြေအနေကို မောင်ဌေးလွင်ကလေးက တေးထပ်ဖွဲ့ဆိုသည်ဟူ၏၊ သူ့တေးထပ်၏ အဆုံးပုဒ်ကလေးမှာ **"ပလိပ်ငှက်နိပ်စက်တာရယ်, စိတ်ဖျက်စရာ လွန်ကောင်းပါလှလေး"**ဟူ၍ ဖြစ်သတတ်။

## သမ္ဗုဒ္ဓေကလေးတော့ ရသားပဲ

မောင်ဌေးလွင်ကလေး၏ ငယ်ငယ်ကလက်ရာကို လိုက်လံရှာဖွေရာ ဤမျှသာ တွေ့ရှိရ၏၊ ဤစာပိုဒ်ကလေးကိုပင် ကျောက်ဆည်မြို့ ဆူးကုန်းရပ်က ရှေ့နေကြီး **ဦးပေါ်** ရွတ်ပြ၍ သိရခြင်း ဖြစ်ပါသည်၊ ရှေ့နေကြီးဦးပေါ်သည် မောင်ဌေးလွင်နှင့် သက်တူရွယ်တူ ခုနှစ်တူဖြစ်၏၊ ငယ်စဉ်က ပလိပ်မြို့ကလေးမှာ အတူနေခဲ့ရ၍ တစ်ဦးနှင့်တစ်ဦး အလွန်ရင်းနှီးခင်ခဲ့ကြသည် ဟူ၏။ "မောင်ဌေးလွင်ကလေး၏ ကဗျာတွေ နှုတ်တက်များစွာရဖူးသည်"ဟုကြား၍ သူ့ထံသို့ ရောက်ခဲ့ရ၏၊ ရွတ်ပြပါရန် တောင်းပန်သောအခါ "အင်း-အသက်ကလည်းကြီးလာတော့ မေ့ကုန်ပြီကိုယ်တော်, တစ်ပုဒ်ပဲ ရတော့တယ်"တဲ့၊ ရသမျှ ရွတ်ပြပါဟု တောင်းပန်သဖြင့် အထက်ပါ စာပုဒ်ကလေးကို ရွတ်ပြခြင်းဖြစ်သည်၊ "ဒါပဲလား" ဆိုတော့, "ဒါပဲ"တဲ့၊ ထိုအခါ ကျေးတောရွာက မိန်းမကြီးတစ်စု ဘုရားဖူးလည်ကြသည်ကို သွား၍ သတိရမိတော့၏၊ အုပ်စုဖွဲ့၍ ဘုရားဖူးသွားကြရာ ဘုရားကို ဦးချပြီးမှ "ကဲ-ဘုရားရှိခိုးရတဲ့သူက တိုင်ပေးကြအေ၊ တို့က လိုက်ဆိုပါ့မယ်"ဟု အကြီးအကဲလုပ်သူက ပြောသည်၊ ဘုရားရှိခိုးစာကို သူလည်းမရ, ငါလည်းမရ, မည်သူမျှ မရကြ၊ နောက်တော့မှ တစ်ယောက်က ပြောသည်၊ "သမ္ဗုဒ္ဓေကလေးတော့ ရသားပဲ"တဲ့၊ "ရရင်တိုင်ပါအေ"ဟု တောင်းပန်ကြ၏၊ "သမ္ဗုဒ္ဓေ" ဟု တိုင်ပေးလိုက်သည်၊ အားလုံးက "သမ္ဗုဒ္ဓေ"ဟု လိုက်ဆိုကြသည်၊ ထို့နောက်ရပ်သွား၏၊ "တိုင်ပါအေ့"ဆိုမှ "သမ္ဗုဒ္ဓေ"ဟု တိုင်ပြန်သည်၊ အားလုံးက လိုက်ဆိုကြသည်၊ ရပ်သွားပြန်သည်၊ "တိုင်ပါအေ့"ဟု ပြောပြန်သောအခါ တိုင်ပြန်၏၊ လိုက်ဆိုကြပြန်၏၊ ရပ်သွားပြန်သည်၊ ထိုအခါ "ဘယ့်နှယ်လဲအေ့, ညည်းဥစ္စာကရတယ်ဆို, ဒါလေးပဲလား" "ဟုတ်တယ်လေ, အစကတည်းက ပြောပါပကော, သမ္ဗုဒ္ဓေကလေးတော့ ရပါတယ်လို့"၊ ရှေ့နေကြီး ဦးပေါ်လည်း ဤအတိုင်းဖြစ်၍ နေချေပြီ၊ သို့သော် ဖွဲ့ကုံးထားသော ကဗျာကလေးများ မေ့ကုန်သော်လည်း အခြားသော မောင်ဌေးလွင်နှင့်ပတ်သက်သည့် အကြောင်းအရာများကိုကား များစွာ ပြောပြပါသေးသည်။

## ဆရာတော်၏ ကြည်နူးမှုများ

ထိုအချိန်တွင် မောင်ဌေးလွင်မှာ အခြေခံ နာမ်ဂိုဏ်း, အာချာတ်ဂိုဏ်းများ ကြေညက်နေရုံသာမက သဒ္ဒါလည်း အတော် ပိုင်နေလေပြီ၊ ထို့ကြောင့် အသက် ၁၅-နှစ်အရွယ်တွင် ပါဠိဂါထာစီကုံးနည်းများပါ ထပ်ဆင့်သင်ပေးတော်မူပြန်၏၊ သင်ပေးသမျှ လေ့ကျင့်ရသဖြင့် တစ်စတစ်စ သဘောပေါက်လာ၏၊ ပါဠိတော် အဋ္ဌကထာတို့၌ တွေ့ရသောဂါထာတို့ကို စေ့စေ့စပ်စပ် ပြန်၍ဖတ်သောအခါ မောင်ဌေးလွင် စီကုံးသောဂါထာလည်း ပို၍လှပအောင် ပြုပြင်လာနိုင်သည်၊ မြန်မာကဗျာများမှ တစ်ဆင့်တက်၍ ပါဠိဂါထာများကိုပင် သီကုံးတတ်လာသောအခါ ပို၍ ဝမ်းသာလာရ၏။

နံနက်ခင်း နေမင်းရောင်ခြည်အလင်းဓာတ်နှင့် တွေ့သောအခါ လန်းဆန်းစွာ ပွင့်အာရသော ပဒုမ္မာကြာကဲ့သို့ မောင်ဌေးလွင်၏ အသိဉာဏ်ပဒုမ္မာကြာတို့လည်း ယခုအခါ လန်းဆန်းစွာ ပွင့်အာလာကြကုန်လေပြီ၊ မောင်ဌေးလွင်၏ ကဗျာအရေးအသားရော, ပါဠိဂါထာအရေးအသားတို့ပါ အတော်အဆင့်မြင့်နေလေပြီ၊ ချောမော ပြေပြစ်နေလေပြီ။

ဤအကြောင်းအရာကို နောင်အခါတွင် ရွှေကျင်သာသနာပိုင်ဆရာတော်ကြီးဖြစ်လာသော မြောင်းမြဆရာတော်က ဩဝါဒပေးရင်း ဤသို့ ထည့်သွင်းမိန့်ကြားသွားဖူးပါသည်။

"တောင်မြို့ဘုန်းကြီးက ငယ်ငယ်ကတည်းက စာရေးဝါသနာပါတယ်၊ စာရေးတတ်တယ်၊ ရေးတတ်အောင်လည်း ကြိုးစားတယ်၊ ၁၃-နှစ်သား့လောက်မှာ သံပေါက်ကလေးများ စပ်တတ်အောင် သင်ပေးခဲ့တယ်၊ နောက် ၁၄-နှစ် ၁၅-နှစ်သားလောက်ကျတော့

တို့က ပါဠိဂါထာစီကုံးနည်းပါ သင်ပေးပြန်တယ်၊ ရေးတတ်အောင် သူ ကြိုးစားတာပဲ၊ တစ်နေ့တော့ သူ့အမေ အဖေများထံက စာလာလို့ ဝမ်းမြောက်တဲ့ အကြောင်းကို ဂါထာရေးပြီး လာပြတယ်၊ အင်း... သူ့ဂါထာက ဘာတဲ့...

**"သရိင်ဂါမေ ဝသန္တေဟိ, မာတာပိတူဟိ ပေသိတံ၊**

**ဓေတ္တာပဏ္ဏံ လဘိတွာန, ပမောဒါမိ ပုနပ္ပုနံ"**တဲ့။ မညံ့ဘူး၊ သူ့ဟာ ချောမောပြေပြစ်တယ်၊ အဓိပ္ပာယ်က "သရိုင်ရွာမှာနေကြတဲ့ သူ့မိဘတွေက ပေးတဲ့ စာကို ရလို့ ခဏခဏ ဝမ်းသာကြည်နူးရတယ်"ပေါ့လေ၊ ကောင်းပါတယ်၊ ပြီးတော့ တေးထပ်ဆိုလည်း တို့က လယ်တီပဏ္ဍိတဦးမောင်ကြီးရေးတဲ့ တေးထပ် တစ်ပုဒ်ကို နမူနာပေးလိုက်တယ်၊ ဟော မကြာမီ ပေးလိုက်တဲ့ တေးထပ်အလိုက် နောက်ထပ်တစ်ပုဒ် အသစ်ရေးပြီး လာပြတာပဲ" ဤသို့ မိန့်ကြားတော်မူဖူး၏။

## အခြေခံမူလ ကောင်းခဲ့၍

ဤသို့လျှင် မောင်ဌေးလွင်၏ကဗျာအရေးအသား ပါဠိဂါထာအရေးအသားတို့ မြင့်မား ချောပြေသော အဆင့်သို့ ရောက်ရခြင်းမှာ အမြော်အမြင်ကြီးမား သော ဆရာသမား၏ သင်ကြားပေးမှု စောင့်ရှောက်မှု ချီးမြှောက်မှုကို ခံယူရခြင်း, တပည့်ကလည်း ပင်ကို ပါရမီဓာတ်ခံ ရှိခဲ့ခြင်း, ကြိုးစားလိုက်နာခြင်းနှင့် မိမိ ကိုယ်တိုင် ပါဠိတော်ကြီးများ အဋ္ဌကထာကြီးများကို အဝါးဝစွာ ဆိုနေရ ဖတ်နေရ လေ့လာနေရသော အခွင့်အရေးရခြင်းများပါ ပေါင်းထည့်နိုင်သဖြင့် ကောင်းသည့်အခြေခံစုံသောကြောင့် ဖြစ်လေသည်၊ မောင်ဌေးလွင်ကား...ကုသိုလ်ထူးပေစွ။

ယခုအခါ မောင်ဌေးလွင်သည် ၁၆-နှစ်ထဲဝင်စ ပြုလာပြီ၊ ပထမလတ်ဖြေဆိုဖို့ရန်လည်း အသင့်ပြင် ထား၏၊ နယုန်လသို့ တဖြည်းဖြည်း နီးကပ်လာလေ ပြီ၊ ၁၆-နှစ်လည်း တင်းတင်းပြည့်ခဲ့ပြီ၊ ပထမလတ်ကို ဝင်ရောက် ဖြေဆိုရာ လွယ်ကူ ချောမောစွာပင် အောင်ပန်း ဆွတ်ခူးနိုင်ခဲ့ပြန်လေသည်၊ အဘယ့် ကြောင့်ပါနည်း? ...

လက်ရှိ သင်ကြားနေရ လေ့လာနေရ ဆိုနေရ သော စာဝါကြီးများက ပထမလတ်ထက် များစွာ မြင့်၍ အသိဉာဏ်ကျယ်ဝန်းအောင် ဖွင့်ပေးသော ကြောင့် ဖြစ်ပါသည်။

# မောင်ဌေးလွင် ရှင်သာမဏေပြုခြင်း

## လှူတို့ဘောင်မှ သာမဏေဘဝသို့

သက္ကရာဇ် ၁၂၇၈-ခုနှစ် ဝါဆိုဦးတွင် ဖြစ်၏၊ မောင်ဌေးလွင် အသက် ၁၇-နှစ်ထဲဝင်လေပြီ၊ သရိုင် ရွာမှ အဘိုးနှင့်မိခင်ဒေါ်အုန်းလှိုင်တို့ ပလိပ်သို့ လိုက် လာကြ၏၊ ရှင်သာမဏေပြုပေးကြရန် ဖြစ်သည်၊ မောင်ဌေးလွင်သည် သရိုင်ရွာတုန်းက ပင်းကျောင်း ကြီးမှာ မနေမီ ၅ - နှစ်သား အရွယ်တွင်ကပင် ရှင်လောင်းလုပ်ခဲ့ဖူး၏၊ မြင်းပေါ်မှာ ဝိုက်ခဲ့သည်ကို အမှတ်ရနေသည်၊ ထိုစဉ်တုန်းက ငယ်လွန်းနေသေး ၍ သင်္ကန်းကို မိဘများက ဝတ်မပေးခဲ့ကြ၊ ယခုမှ ပီပီပြင်ပြင် ဝတ်ပေးကြရန် လိုက်လာကြခြင်း ဖြစ် သည်၊ မြောင်းမြဆရာတော်လောင်း ဘုန်းတော်ကြီး ဦးဉာနာဘိဝံသကို ဥပဇ္ဈာယ်ပြု၍ မိဘများ၏ ပစ္စယာ နုဂ္ဂဟကို ခံယူကာ မောင်ဌေးလွင် ရှင်သာမဏေ ဘောင်သို့ တက်ခဲ့ပါလေပြီ။

သာမဏေပြုသောနေ့က ဖြစ်၏၊ လူဝတ်ကြောင် ဘဝဖြင့်ကြာမြင့်စွာနေလာခဲ့ပြီးမှ ယခုလိုသင်္ကန်းဝတ် အသွင်သို့ ကူးပြောင်းလိုက်သောအခါ စိတ်ထဲမှာ တစ်မျိုးပင် ခံစားရလေသည်၊ ဤသင်္ကန်းအဝတ်ကို နှစ်နှစ်သက်သက် ဘဝအဆက်ဆက်က တောင့်တ ခဲ့၍လော မပြောတတ်၊ စိတ်ထဲမှာ အသွင်ဆန်းသလို

ရှင်လန်းသွားတော့၏၊ ဘဝသည် ကတ္တားခြား၍ မြင့်တက်သွားသလို ထင်ရ၏၊ သို့သော် မိမိစွန့်ခွာခဲ့သော အင်္ကျီနှင့်ပုဆိုးကလေးတို့ကား ညှိုးငယ်စွာ ကျန်ရစ်ခဲ့ကြရှာသည်၊ မင်းတို့နှင့် သည်ဘဝ သည်မျှသာဟု ဆိုရမည်လော။

ထိုနေ့က တစ်နေ့လုံး သင်းပိုင်ကို ညီအောင် ပြင်ဝတ်လိုက်, ဧကသီကို အစညီအောင် ပြင်ရန်းလိုက်, သင်းပိုင်က အောက်အနားစစွန်း တွဲလျားကျနေသောအခါ ခါး၌ စည်းထားသော အခေါက်အလိပ်ကို ပြန်ဖြေလိုက် ဝတ်လိုက်နှင့် အလုပ်များနေသည်။

ညပိုင်းရောက်သောအခါတွင်လည်း ထွန်းထားသော မီးရောင်အောက်သို့ သွား၍ အရိပ်ကို ကြည့်လိုက်, သင်္ကန်းကို ပြင်ဝတ်လိုက်နှင့် ချပ်ချပ်ရပ်ရပ်ဖြစ်အောင် လေ့ကျင့်နေခဲ့သည်၊ ကြည်နူးချမ်းမြေ့နေခဲ့၏။

မယ်တော် ဒေါ်အုန်းလှိုင်ကမူ ... "ရှေးတုန်းက ရှပ်အင်္ကျီဖြူ ယောပုဆိုးကလေးနဲ့ မောင်ဌေးလွင်, ယခု သင်္ကန်းအညိုရောင်ကလေးနဲ့ လူက ပိန်ပါးပါး, အသားက လတ်လတ်, ချပ်ချပ်ရပ်ရပ်နဲ့ ကိုရင်ဌေးလွင်, ပိုပြီး ကြည့်ကောင်းသလိုလို သင်္ကန်း အညိုရောင်ကလေးနဲ့ လိုက်ဖက်တယ်၊ ကြည်ညိုဖွယ်ကောင်းလိုက်ပါဘိ"ဟု စိတ်ထဲမှာ ကြည်နူးနေဟန်ရှိသည်။ ။

**ကိုယ့်ဘွဲ့နာမည်**
**ကိုယ့်ဘာသာရွေး**

ဆရာ ဘုန်းတော်ကြီးသည်လည်း ကြည်နူး နေခဲ့ပါ၏၊ ဤ အခြေအနေသို့ ရောက်အောင် လိမ္မာ ပါးနပ်စွာဖြင့် ဤသူငယ်ကို ထိန်းကျောင်းပဲ့ပြင် လာခဲ့သည် မဟုတ်ပါလော။

ယခုအခါ သင်္ကန်းဝတ်ဘဝသို့ ရောက်အောင် ခေါ်ဆောင်လာနိုင်ခဲ့သဖြင့် ကိုယ့်ကိုယ်ကိုလည်း ကျေနပ်အားရနေမိသည်၊ သို့သော် ဘုန်းတော်ကြီးကား အထူးထုတ်ဖော် မိန့်မြွက်တော်မမူပေ၊ နောက်တစ်နေ့တွင်မှ ဆရာဘုန်းတော်ကြီးက သာမဏေကို ခေါ်၍ "ကိုရင် ... မင်းဘွဲ့ကို မင်းဘာသာမင်း ကြိုက်ရာကို ရွေးမှည့်" ဟု မိန့်မြွက်တော်မူ၏၊

ဘုန်းတော်ကြီးသည် သာမဏေ၏ အရည်အသွေးကို သိထားပြီး ဖြစ်၏၊ ထို့ကြောင့် ဤသို့ ခွင့်ပြုတော်မူခြင်း ဖြစ်သည်၊ ထိုအခါ ကိုရင်သည် ကိုယ့်ဘွဲ့ကို စဉ်းစားရတော့၏၊ ဤ**ဘွဲ့မည်ယူခန်း**နှင့် ပတ်သက်၍ ဆရာတော်က စာချရင်း အကြောင်းစပ်လာသဖြင့် အောက်ပါအတိုင်း ပြောပြဖူးသည်။

"ငါ့ကို ဆရာဘုန်းတော်ကြီးက 'မင်းဘွဲ့ မင်းဘာသာ ကြိုက်ရာရွေးမှည့်'လို့ အခွင့်ပြုတော့ ငါ့မှာ စဉ်းစားခဲ့ရတယ်၊ ငါက အင်္ဂါသားဆိုတော့ 'စ ဆ ဇ ဈ ည'အင်္ဂါနံကိုး၊ အဲဒီထဲက တစ်ခုခုဟာ အစအလုံး ဖြစ်ရမှာ၊ နာမည်မှည့်တယ်ဆိုတာ ဒီလိုပဲ မှည့်ရတာပဲ,...ဒီနေရာမှာ ငါက 'မူ'တစ်ခု ထားတယ်၊ ဘာလဲဆိုရင် ၁။ ငါ့နာမည်ဟာ ရှေးသူတော်ကောင်းတို့ရဲ့နာမည်ဟောင်း ဖြစ်ရမယ်၊ ပြီးတော့ ၂။ ထူးခြားတဲ့ အဓိပ္ပာယ်လည်း ရှိရမယ်၊ ဒါမူပဲ၊ အဲဒီမူနဲ့ ရှာကြည့်တဲ့အခါ ငယ်ငယ်တုန်းက ဇာတ်တော်များကို လေ့လာစဉ်က စွဲလာခဲ့တဲ့ အလောင်းတော် **"မဟာဇနက"**ကို သွားပြီး သတိရတယ်။

အဲဒါဟာ နံပါတ် ၁-အရ မှန်တယ်၊ ရှေးသူတော်ကောင်းပဲ၊ ပြီးတော့ နောက်တစ်ခု အလောင်းတော် မဟာဇနကဟာ လုံ့လဝီရိယ ကြီးမားတော်မူတယ်၊ တကယ့်စံပြပဲ၊ ငါလဲ လုံ့လဝီရိယကောင်းတာပဲ၊ အဲ-ဟုတ်ပြီ၊ ဒါဟာဆိုရင် အဓိပ္ပာယ်ရှိတဲ့အတွက် နံပါတ် ၂-အရလည်း ကိုက်ညီသွားပြီ။

ဒါနဲ့ အဘိဓာန် လှန်ကြည့်ပြန်တော့လည်း ... **"တာတော တု ဇနကော ပိတာ"**တဲ့၊ "တာတော-အဖေ၊ ဇနကော-အဖေ၊ ပိတာ-အဖေ"လို့ အဓိပ္ပာယ်ရကြတယ်၊ အဲဒီအထဲက "ဇနကော-အဖေ"ဆိုတာကို ငါသိပ်ကြိုက်သွားတယ်ကွ၊ ဘာလို့လဲဆိုတော့ ငါလည်း အများရဲ့ အဖေအရာ၌ ရပ်တည်နိုင်အောင် အရည်အချင်းရှိတာပဲ၊ ပြီးတော့ အလောင်းတော်ရဲ့ နာမည်လည်းဖြစ်တဲ့အတွက် ဘုရားရှင်ကိုလည်း အလေးပြုရာ ရောက်တယ်ဆိုပြီး အဲဒီ **"ဇနက"** ဆိုတဲ့ နာမည်ကိုပဲ ရွေးလိုက်တယ်"

**ရှင်ဇနက**

အဲဒီလိုရွေးပြီး စာရွက်တစ်ခုပေါ်မှာ **"ဇနက"**လို့ ပီပီသသရေးလိုက်တယ်၊ ပြီးတော့ ဆရာဘုန်းတော်ကြီးထံ သွားပြတယ်၊ ငါ့ဆရာဘုန်းတော်ကြီးဆိုတာ မင်းတို့ သိတဲ့အတိုင်း အင်မတန် ကျွန္တေကြီးတော်မူတာ၊ ရယ်ခဲ ပြုံးခဲတယ်၊ တော်ရုံတန်ရုံ မရယ်ဘူး, မပြုံးဘူး၊ အခုတော့ မပြုံးတပြုံး မျက်နှာကြီးနဲ့ ငါရွေးလာတဲ့ ဘွဲ့နာမည်ကို ယူပြီးကြည့်တယ်၊ စာရွက်ပေါ်က ဘွဲ့နာမည်ကို စိုက်ပြီး ကြည့်နေတယ်၊ သေသေချာချာလည်း စစ်ဆေးနေတယ်၊ ပုဒ်ပါဌ် သဒ္ဒါအနေအထား, အဓိပ္ပာယ် အနေအထား, ဆန်းကိုဏ်းအနေအထား အားလုံး စစ်ဆေးနေပါလိမ့်မယ်၊ ခေါ်လို့ ကောင်း-မကောင်း လည်း သူ့နှုတ်ထဲမှာ တိုးတိုးခေါ်ကြည့်နေလိမ့်မယ် လို့လည်း ထင်ပါတယ်၊ ပြီးတော့မှ ခွင့်ပြုတဲ့ အပြုံး, ကျေနပ်တဲ့နှလုံးဖြင့် မပြုံးတစ်ဝက် ပြုံးတစ်ဝက် မျက်နှာကြီးနဲ့ "အင်း-ဆန်းကိုဏ်းအနေနဲ့လည်း သင့်ပါတယ်၊ အဓိပ္ပာယ်လည်း ကောင်းသားပဲ၊ အဲဒီအတိုင်းပဲ တည်ပေစေ"တဲ့၊ ကျေကျေနပ်နပ်ကြီး ခွင့်ပြုတော်မူလိုက်တယ်။ ဒါကြောင့် ငါ့ဘွဲ့ကို ငါ့ဘာသာ ငါရွေးတယ်ဆိုပေမယ့် ဆရာဘုန်းတော်ကြီးက ခွင့်ပြုမှ အတည် ဖြစ်ရတာပါ၊ သူမကြိုက်ရင် အတည်မဖြစ်နိုင်ပါဘူး၊ ဒါကြောင့် "ဆရာဘုန်းတော်ကြီးကပဲ ငါ့ဘွဲ့ကို မှည့်ပေးတယ်"လို့ ဆိုရမှာပဲ၊ ငါက ရွေးရုံသာ ရွေးပေးတာ မဟုတ်လား၊ အဲလိုနဲ့ အဲဒီအချိန်ကစပြီး **"ရှင်ဇနက"**ဆိုတဲ့ ဘွဲ့နာမည် တွင်လာတော့တာပဲ" ဟူ၍ ပြန်လည် ပြောပြဖူးသည်၊ သို့ရာတွင် ပလိပ်သူတို့ကမူ "ကိုရင် ဌေးလွင်" ဟူ၍ပင် ရင်းရင်းနှီးနှီး ခေါ်ကြပါသတတ်။

ရှင်ဇနက မဖြစ်မီ မောင်ဌေးလွင်၏ ဘဝကို ကျောက်ဆည်မြို့ ဆူးကုန်းရပ်က **ရွှေနေကြီးဦးပေါ်**ကပင် ပြန်လည် ပြောပြပါ၏။ "မောင်ဌေးလွင်က ကျောင်းသားဘဝမှာ အဝတ်အစားကို သပ်သပ်ရပ်ရပ် ဝတ်တတ်တယ်၊ ဟိုတုန်းကတော့ ခန္ဓာကိုယ်က ပိန်ပိန်ပါးပါးပါ၊ အသားက လတ်လတ်ဆိုတော့ သူ့အဝတ်အစားနဲ့သူ ကြည့်ကောင်းတယ်၊ စကားကိုလည်း အဆစ်အပိုင်းကျကျ ပြောတတ်တယ်၊ အတွေးအခေါ်လည်း ရှိတယ်၊ ပြီးတော့ ဆက်ဆံရေးမှာ ရည်ရည်မွန်မွန် ရှိတယ်၊ မျက်နှာ ချိုတယ်၊ အလိုက် သိတတ်တယ်၊ ဒါကြောင့် သူ့မှာ လူချစ်လူခင် များတယ်၊ ပြီးတော့ စည်းစနစ်လည်း ကြီးတယ်၊ သူ့ဆရာ ဘုန်းတော်ကြီးရဲ့ လက်ကျမဟုတ်လား၊ ဆရာဘုန်းတော်ကြီးကဆို စည်းကမ်းက ကြီးပါဘိသနဲ့၊ ပြီးတော့ မောင်ဌေးလွင်က သူငယ်ချင်းတွေကို တစ်ခါတစ်ခါ ပြောတတ်တယ်၊ "မင်းတို့ ပတ်ဝန်းကျင်လူတွေနဲ့ ဆက်ဆံ ပြောဆို နေထိုင်တဲ့အခါမှာ သိက္ခာ ရှိကြစမ်းပါ"တဲ့၊ သူက ငယ်ငယ်ကတည်းက အဲလိုလူ"ဟူ၍ ဦးပေါ်က ပြန်လည်ပြောပြပါသည်။ ။

**တောက်မည့်မီးခဲ တရဲရဲနှင့်နေ**

မောင်ဌေးလွင်သည် ယခုအခါ သာမဏေဘဝသို့ပင် မြင့်တက်နေပြီ ဖြစ်၍ ပို၍ပင် သိက္ခာရင့်ကျက်လာတော့သည်၊ ဝတ်ပုံစားပုံ ချပ်ချပ်ရပ်ရပ် အချိုးအစား ကျကျနန နေတတ်ထိုင်တတ် ပို၍ ဖြစ်လာသည်၊ အမြဲလိုလိုပင် သတိထား၍ ပြုပြင်နေ၏၊ ဆရာသမား၏ ရင်အုပ်မကွာ စောင့်ရှောက်မှုကို ရ၍လည်း သူ့ဘဝသည် အခွင့်အရေး သာခဲ့ပါ၏၊ သူ့ဘဝ သူ့ဇာတာကား တော်ပါပေစွ။

ယခုအခါ သာသနာတော်၌ နှစ်မြိုက် ကျေနပ်စွာ သဒ္ဓါတရားများလည်း တိုးတက်နေပါပြီ၊ ရှင်ဇနကသည် ပရိယတ်ဆရာသမားများ၏ ခြေတော်ရင်း၌ ခိုလှုံရရုံမျှမက စစ်ကိုင်းတောင်ရိုး မဟာဂန္ဓာရုံ ဆရာတော်တို့ကဲ့သို့ ပဋိပတ်ဆရာတော်ဘုရားများ ခြေတော်ရင်းသို့လည်း ချဉ်းကပ်ခွင့်ရသဖြင့် "တော်ပါပေစွ"ဟု အများက ချီးကျူးရသော ဂုဏ်မျိုးကို ရသူဖြစ်သည်။

ဤသို့ ဆရာသမားကောင်းများ၏အရိပ်အောက်မှာ ခိုလှုံခွင့်ရသူ ဖြစ်၍လည်း အစစအရာရာ ဖိုင်းကောင်း ကျောက်ဖိ ပိပိရိရိ ဖြစ်၍ လာတော့သည်၊ ယခုအခါသိက္ခာကျွန္တေ ရင့်ကျက်နေသော သာမဏေ ရှင်ဇနကကို ပလိပ်မြို့ ဒါယကာ ဒါယိကာမတို့က ပို၍ လေးစားလာကြ၏၊ ရှင်ဇနက၏ အစွမ်းအစ

သတ္တိ ဗျတ္တိကိုလည်း သိထားပြီး ဖြစ်ကြသည်၊ သာမဏေမဝတ်မီ ကျောင်းသားဘဝကပင် ပထမ လတ်တန်းကို အောင်မြင်ထားပြီး မဟုတ်ပါလော။

ထို့ကြောင့် သာမဏေအဆင့်သို့ မြင့်လာသော ရှင်ဇနကထံမှာ ဥပုသ်သည် ဒါယကာ ဒါယိကာမတို့က သီလခံယူလိုကြသည်ဟု ဆိုလာကြ၏၊ သို့ဖြစ်၍ ဥပုသ်နေ့တစ်နေ့မှာ သီလပေးဖို့ရန် စုပေါင်းတောင်း ပန်ကြတော့သည်၊ ကိုရင် ဇနကအဖို့မှာ ဤကဲ့သို့ သီလပေးမှုကိစ္စအတွက် ဘာမျှ ဝန်လေးသောကိစ္စ မဟုတ်ချေ၊ ထို့ကြောင့် လွယ်လွယ်ပင် လက်ခံ၍ သီလ ချီးမြှင့်လိုက်တော့သည်။ ။

**ရှင်ဇနက၏ တရားဒေသနာ**

နောက်တစ်ပတ် ဥပုသ်နေ့တွင် သီလ ပေးပြီးသောအခါ … "ရေစက်ကလေး ချပေးပါဦး" ဟု အဆစ်တောင်းလာကြ၏၊ တောင်းသည့်အတိုင်း ပင် အဆစ်ပါ သာသာထိုးထိုး ဖြည့်စွက်ပေးလိုက် သည်၊ ထို့နောက် တစ်ပတ်တွင်ကား "တရားကလေး ပါ နည်းနည်း ချီးမြှင့်ပါဦးဘုရား"ဟု ထပ်ဆင့်တက် လာပြန်တော့၏၊ ထိုအခါ မိမိ သင်ယူထားပြီးဖြစ် သော ဓမ္မပဒအဋ္ဌကထာထဲက သင့်တော်ရာဝတ္ထု ကြောင်းတစ်ပုဒ်ကို ဆွဲထုတ်ပြီး ဟောပြလိုက်တော့ သည်၊ အားလုံးက သဘောကျ၏၊ လက်ခံကျေနပ် ကြသည်။

သို့ရာတွင် ဆရာဘုန်းတော်ကြီးကမူ ငယ်ငယ် ရွယ်ရွယ်နှင့် တရားဟောသည်ကို သိပ်ပြီး သဘော မကျလှ၊ ကိုရင့် အရည်အသွေး အစွမ်းအစကို ချိုးနှိမ်ရာကျမည် စိုး၍သာ ဘာမျှ မပြောဘဲ နေခဲ့ သည်။

ထိုနှစ် သီတင်းကျွတ်သောအခါ ကထိန်အလှူ ညတရားကိုပါ ဟောဖို့ရန် ဒါယကာများက ကြိုတင် လျှောက်ထားကြပြန်၏၊ ရှင်ဇနကကလည်း မငြင်းခဲ့ ပေ၊ အချိန်ရောက်သောအခါ နာမည်ကျော် ဓမ္မ ကထိကကြီးများကဲ့သို့ ညတရားကို တစ်နာရီခွဲ လောက်ကြာအောင် ဟောလိုက်သည်၊ ထိုညက အရှင် မဟာကဿပကြီးတို့၏ အလောင်းအလျာ ပိပ္ပလိနှင့်မယ်ဘဒ္ဒါတို့ ပါရမီဖြည့်ခန်းကို ဟောကြား သည်ဆို၏၊ ဇာတ်လမ်းက လွမ်းဆွတ်ဖွယ်, တသ ဖွယ်, ကြည်နူးဖွယ်, အားကျဖွယ်, အတုယူဖွယ်, သဒ္ဓါ တရား ဖြစ်ဖွယ်တို့ဖြင့် ပြည့်နေသဖြင့် ရှင်ဇနက၏ ဒေသနာထဲမှာ တအိအိနှင့် ပီတိဖြစ်ကြရသည် ဆို၏။ ။

**ဆရာတော့်အားမာန်**

ရှင်ဇနကသည် ပလိပ်မြို့ ရွှေကျင်ကျောင်း၌ ဆရာ ဘုန်းတော်ကြီး ဦးဉာဏဘိဝံသထံတွင် ရှိသေကျိုးနွံ စွာ ပညာရည်နို့ သောက်စို့လျက်ရှိ၏၊ ပိဋကတ် အခြေခံများမှသည် ယခုအခါ မြင့်သောအခြေအနေ သို့ပင် ရောက်နေချေပြီ၊ ဆရာဘုန်းတော်ကြီးက စိစဉ်ပို့ချပေးသော ပါဠိတော်များ အဋ္ဌကထာများ နေ့နေ့ညည ဆိုရင်း တက်ရင်း တစ်ဖက်မှလည်း ပထမကြီးတန်းကို ဝင်ရောက်ဖြေဆိုဖို့ အာရုံစိုက်ရ သေးသည်၊ မြောင်းမြဆရာတော်လောင်း ဘုန်းတော် ကြီး ဦးဉာဏဘိဝံသသည် အလွန် စည်းကမ်းကြီး တော်မူ၏၊ တိကျ၏၊ သေချာမှု ကြိုက်သည်၊ အလွန် ဉာဏ်ထက်သော ရှင်ဇနကတို့လို ပုဂ္ဂိုလ်မျိုးကိုပင် အားမရနိုင်အောင် ရှိတတ်၏၊ ထို့ကြောင့် ရှင်ဇနက သည်ပင် တစ်ခါတစ်ခါ စာအုပ်နှင့် အထုခံရသည်၊ ထွေးခံနှင့်လည်း အပေါက်ခံရတတ်၏။

စာဝါများကိုလည်း သိပ်အပျက်မခံ၊ နေ့စဉ်မှန်မှန် ချပို့နေရမှ တက်မှ ကြိုက်သည်၊ ရှေးပိုင်းကာလများ က ဆိုလျှင် ပလိပ်ရောဂါများ ရှောင်ရင်း တုတ်ကွေး ဖျားများကို တိမ်းရင်း ဟိုရပ် ဒီရွာ၌ ပြေးရင်း လွှား ရင်း ရောက်လေရာ အရပ်တို့၌ စာချနေတတ်သည်၊ ပလိပ်မြို့ကလေးမှာ နေစဉ်တုန်းကလည်း ဆရာ ဘုန်းတော်ကြီးက ဥပုသ်နေ့ပါ စာချချင်၏၊ သူက အကြောင်းပြသေးသည်။

"သူများတွေ ဥပုသ်နေ့မှာ စာဝါပိတ်တယ်ဆိုတာ ဘုန်းကြီးကြလို့, ဒါယကာ ဒါယိကာမတွေ လာကြလို့, ဥပုသ်သည်တွေ ရှုပ်နေလို့ ပိတ်ကြရတာ၊ တို့ ကျောင်းမှာက ဥပုသ်သည်တွေ လာတာမှ မဟုတ် ဘဲ"တဲ့။ ။

**မျက်ရည်သုတ်၍ သီလပေးခဲ့ရ**

ဤသို့ အကြောင်းပြကာ... တပည့်တွေကိုခေါ်၍ စာချတတ်၏၊ တပည့်များကား ဥပုသ်နေ့ဖြစ်၍ အနားယူချင်ကြသည်၊ သို့သော် အတန်တန် ခေါ်သဖြင့် သူ့ထံသို့ စာတက်သွားကြရတော့သည်။

သို့တစေလည်း စိတ်ရှည်သည်ကားမဟုတ်၊ တစ်ချက် လွဲလျှင် "သဲ"ခနဲနေအောင် တွယ်တတ်၏၊ ထိုနေ့ကလည်း ဝပ်နေသော ရှင်ဇနက၏ ကျောပြင်ကို သားရေဖုံးစာအုပ်ကြီး အနှောင့်ဖြင့် ထုထားသည်၊ ရှင်ဇနကမှာ တရှုပ်ရှုပ်နှင့် ငိုရင်း စာဆိုနေရ၏။

ဤအကြောင်းအရာများကို တစ်ခါက စာချရင်း အကြောင်းစပ်လာသဖြင့် ဆရာတော်က အောက်ပါအတိုင်း ပြန်လည် အမိန့်ရှိခဲ့ဖူးသည်။

"အဲဒီတုန်းက ငါက ငိုရင်း စာဆိုနေရတာ၊ ငိုလို့များ ချော့လိမ့်မယ် မအောက်မေ့နဲ့၊ ထုံးစံမရှိဘူး၊ အဲဒီလိုနဲ့ စာဆိုလို့ အဲဒီနေ့အတွက် ပြီးသွားတော့ ရပ်နားခွင့်ပေးတယ်။

စာဆိုသံ ရပ်သွားတယ်ဆိုရင်ပဲ ဘယ်တုန်းက ရောက်နေတယ် မသိဘူး၊ ကျောင်းအောက်က ဒါယိကာမကြီးတစ်ယောက်က "ကိုရင် သီလပေးပါဦး"တဲ့... လှမ်းအော် လျှောက်တယ်၊ ဒီတော့ ငါက မျက်ရည်တွေကို သင်္ကန်းနဲ့ ကပျာကယာ သုတ်ပြီး အောက်ဆင်း... သီလပေးရပြန်ရော" ဟူ၍ ဖြစ်သည်။

**ဟောပြောမှု ဝါသနာမပါ**

ဆရာဘုန်းတော်ကြီးသည် တပည့်များအား ပိဋကတ်တော်များ၏ အောက်ပိုင်း အထက်ပိုင်း ကျမ်းစာတို့ကို ဒိုးလိုမွှေ ရေလိုနှောက်၍ ချပို့ပေးနေခဲ့သော်လည်း ဟောရေးပြောရေးတို့နှင့် စပ်လာလျှင် သူ လက်ရှောင်တတ်၏၊ ဟောပြောပါရန် တောင်းပန်လျှောက်ထား၍လည်း မရ၊ အောက်ထစ်ဆုံး သီလပေးရေစက်ချကိုမျှ ပြုတော်မမူ။

ထိုကိစ္စမျိုး ကြုံလာလျှင် အသံမာမာ အောအောကြီးနှင့် "ကိုရင် သီလပေးလိုက်၊ ကိုရင် ရေစက်ချပေးလိုက်"ဟူ၍သာ မိန့်တတ်သည်။

ထို့ကြောင့် ယခုလည်း ဒါယိကာမကြီးက ကျောင်းထိုင်ဘုန်းတော်ကြီး ရှိလင့်ကစား ကိုရင်ကိုပင် ထုံးစံအတိုင်း သီလပေးဖို့ရန် တောင်းပန်ခြင်း ဖြစ်လေသည်။

ရှင်ဇနကသည်... ဆရာ ဘုန်းတော်ကြီးက ဤမျှ တင်းမာလှသော်လည်း ငြီးငွေ့ခြင်း၊ စိတ်ပျက်ခြင်း မရှိခဲ့ပေ၊ အန္တအတာ ခံပေ၏၊ ဆရာ့ခြေတော်ရင်း၌ မပျင်းနေ့ည ဆည်းကပ်ခဲ့၏၊ ကြောက် ချစ် ရိုသေ ရှိလှပေသည်၊ သူ လေ့လာမှတ်သားရသော ရှေး ဆရာ့ ဆရာတို့၏ အဆိုအမိန့်ကို နာခံ၍ပေလော။

ပညာရှာမှီး၊ မကြီးသက်ရွယ်၊
အံငယ်သော်က၊ ကြိုးလုံ့လလျက်၊
တုပ်ကွပုဆစ်၊ ဆရာစစ်၌၊
ကြောက် ချစ် ရိုသေ၊ လုပ်ကျွေးထွေဖြင့်၊
စာပေတတ်ကြောင်း၊ တချောင်းချောင်းလျှင်၊
ခြိမ်းမောင်းသည်းစံ၊ ဆရာ့ထံ၌၊
သင်အံကျက်လေ့၊ တစ်နေ့တစ်ပါး၊
မှတ်သားလေလေ၊ ဝမ်းထဲခွေ၍၊
အထွေအထူး၊ ဂုဏ်ကျေးဇူးကို၊
ဆည်းပူးသန့်ရှင်း၊ ကြွယ်စေမင်း။

(လောကသာရပျို့)

## ဆရာ့ထံမှာ ကျိုးနွံစွာ

ဤသို့လျှင်... ရှင်ဇနကသည် ဆရာ့ထံမှာ ကျိုးနွံစွာ ပညာသင်ယူခဲ့၏။

**" ခြေသုတ်ပုဆိုး,**
**မြွေခွယ်ကျိုးနှင့်,**
**ချိုကျိုးသောနွား,**
**ခွန်းစဉ္စွာအားသို့,**
**မလွှား မပ,**
**မာန်မထဘဲ "** ဟူသော...

အရှင်သာရိပုတ္တရာ၏ စိတ်ထားအတိုင်း ရိုသေ ကျိုးနွံစွာ ဆရာ့ထံမှာနေခဲ့၏၊ ညွှန်ပြသမျှ လိုက်နာ ကျင့်သုံးခဲ့သည်၊ လေးစားခဲ့၏။

တစ်ခါ တစ်ခါ အကြောင်းတိုက်ဆိုင်လာလျှင် ဆရာတော်အရှင် ဇနကာဘိဝံသက အောက်ပါ အတိုင်း နောက်ကြောင်းပြန်ကလေးများ မိန့် တတ်သည်။

"ငါက အဲဒီလောက် ဆရာသမားအပေါ် ရိုသေခဲ့တာ, လေးစားခဲ့တာ၊ တစ်ခါမှာတော့ ဆရာဘုန်းတော်ကြီးရဲ့ ဖိနပ်ကို မတော်လို့ နင်းမိသွားတယ်"

"အို...ငါ့မှာ ခေါင်းနားပန်းတွေ ကြီးသွား တယ်၊ ကြက်သီးတွေများ တဖျင်းဖျင်း ထသွား တယ်၊ ငါ့မှာ အပြစ်တွေ ရှိသွားပြီလို့ ယူဆ လိုက်တယ်၊ ဒါနဲ့ ငါက ထိုင်ပြီး ဖိနပ်ကြီးကို ကုန်းပြီး ဦးချလိုက်တယ်၊ အဲဒီတော့မှ ငါ့မှာ စိတ်ရှင်းသွားတယ်" တဲ့။

"ပြီးတော့ တစ်ခါတစ်ရံ ဆရာသမားရဲ့ အိပ်ရာ နေရာကို သန့်ရှင်းရေးလုပ်ဖို့ ကြုံလာ တတ်တယ်၊... သန့်ရှင်းရင်း ဆရာသမားရဲ့ အိပ်ရာ ခုတင်ပေါ် မလွှဲသာလို့ တက်စရာ ရှိရင် ခြေဖဝါးနဲ့ မတက်ဘူး၊ ဒူးထောက်ပြီး တက်ခဲ့တယ်၊"

"ကွယ်ရာပေမယ့် အဲလို ရိုသေခဲ့တာကွ၊ ဒါကြောင့် ကြီးပွားတာ" ...ဟူ၍ မိန့်တတ် သည်။

ဤသည်တို့ကား... ဆရာသမားကောင်းနှင့် သူတော်ကောင်းဓာတ်ခံရှိသူတို့ ပေါင်းဆုံမိကြ၍ ဖြစ်ပေါ်လာရခြင်းတို့သာတည်း။

လယ်ယာမြေကောင်းပေါ်၌ အောင်မာသော မျိုးစေ့ကို ကြဲချလိုက်လျှင် ဧကန်ပင် စည်ပင် သန်ထွားရသကဲ့သို့ မူလဓာတ်ခံကောင်း, စိတ် ကောင်း ရှိသူအပေါ်၌ ဆရာသမားက ကျင့်ဝတ် စာရိတ္တတည်းဟူသော မျိုးစေ့ကောင်းကို ကြဲချ မိပြီ ဖြစ်၍ မုချဧကန် ကြီးပွားရပေတော့မည်။

ဤသို့လျှင် အချိန်အားဖြင့် သက္ကရာဇ် ၁၂၇၉ ခုနှစ်သို့ ရောက်လာ၏၊ ရှင်ဇနကလည်း အသက် ၁၈-နှစ်ထဲ ဝင်လာလေပြီ၊ ထိုနှစ်က ပထမကြီး တန်းကို ဝင်ရောက်ဖြေဆိုထား၏၊ သက်သောင့် သက်သာ ချောချောမောမောပင် ဖြေဆိုနိုင်ခဲ့ သည်။

အဘယ့်ကြောင့်ဆိုသော် သင်ကြားထားသော ပါဠိတော် အဋ္ဌကထာကြီးတို့က ပထမကြီးတန်း ထက်ပင် လေးနက်မြင့်မားနေသောကြောင့်ပေ တည်း။ ။

# မြန်မာပြည်၏ ပါဠိတက္ကသိုလ်ကြီး



**ပခုက္ကူ မဟာဝိသုတာရာမတိုက်တည်**
**ရေစကြိုဆရာတော် (၁၁၉၄–၁၂၇၆)**

### ပခုက္ကူမြို့သို့ ပညာသင်သွား

၁၂၇၉-ခုနှစ် ဝါဆိုဦး ဖြစ်၏၊ ရှင်ဇနက တို့ ဖြေဆိုခဲ့သော ပထမကြီး စာမေးပွဲကား... ဂေဇက်မထွက်သေး၊ ဆရာဘုန်းတော်ကြီး ဦးဉာနာဘိဝံသက ရှင်ဇနကကို အထက်တန်း ပါဠိတော် နိကာယ်ကြီးများ အဋ္ဌကထာကြီးများ ပေါက်မြောက်အောင်ရယ်, အနက်ဉာဏ်များ ကြီးထွား ရင့်သန်နေအောင်ရယ်အတွက် "ပခုက္ကူ သွားနေစေချင်တယ်"ဟု အမိန့်ရှိလေ၏။

ဘုန်းတော်ကြီးသည် သူကိုယ်ကိုင် ပါဠိတော် အဋ္ဌကထာကြီးများကို ချပို့ပေးနိုင်လင့်ကစား ပခုက္ကူကို သွားစေဖို့ အားသန်နေ၏၊ ပခုက္ကူရောက်မှ စာတတ်သည်ဟုလည်း အများပြောရိုး ရှိသည်၊ ပြောလည်း ပြောလောက်၏၊ ပခုက္ကူတိုက်ကြီးသည် မြန်မာပြည်၏ ပါဠိတက္ကသိုလ်ကြီးပင် မဟုတ်ပါလော၊ ထို့ကြောင့်ပင် **"ပခုက္ကူမရောက်, စာမပေါက်"** ဟု ထိုစဉ်က အဆိုရှိကြသည်။

ထို့ကြောင့် ရှင်ဇနကသည် နောင်အခါ ရွှေဘိုကျောက်ကာဆရာတော် ဖြစ်လာမည့် ဦးကေသရနှင့်အတူ ပခုက္ကူသို့ သွားကြသည်၊ မဟာဝိသုတာရာမတိုက်ကြီးထဲမှာ ဝါဆိုကြရ၏၊ ထိုစဉ်က ထိုတိုက်ကြီးမှာ သံဃာတော် ၅၀၀-ခန့်မျှ ရှိသည်ဟူသတတ်၊ **ရှင်ဇနကနှင့် ဦးကေသရ**တို့သည် **မဟာဝိသုတာရာမ** တိုက်ကြီးထဲမှ ဓမ္မရက္ခိတကျောင်းကလေးမှာနေဖို့ အခွင့်ရကြ၏၊ ဝါးကပ်မိုး ဝါးကပ်ကာ နေမြင် လမြင် ကျောင်းကလေးသာတည်း၊ သံဃာ ၅-ပါး ၆-ပါးလောက်သာ ဆံ့၏၊ ရှင်ဇနကက ဆရာဖြစ်သူ ဘုန်းတော်ကြီးဦးဉာနာဘိဝံသကို "ဤမဟာဝိသုတာရာမတိုက်ကြီးထဲမှာ မည်သည့် စာဝါ, မည်သည့် စာဝါတွေ ရှိနေပါတယ်"ဟု စာဖြင့် လျှောက်ထားရ၏၊ ထိုအခါ ဆရာဘုန်းကြီးက "မည်သည့် စာဝါတွေကို လိုက်ရမည်၊ မည်သည့် စာဝါတွေကိုတော့ နေဦး"ဟု အဝေးမှ လှမ်း၍ စီစဉ်ပေးသည်။ ။

### တုပ်ကွေးရောဂါ ကပ်ဆိုက်လာ

ရှင်ဇနကတို့ ပခုက္ကူကို ရောက်သည့်နှစ် ဝါတွင်းမှာပင် တစ်နိုင်ငံလုံး...တုပ်ကွေးရောဂါ အကြီးအကျယ် ဖြစ်ကြသည်၊ ပခုက္ကူတိုက်ကြီးထဲမှာလည်း နည်းနည်းပါးပါး ပျက်စီးသည်၊ စာသင်သား သံဃာများလည်း မိဘရပ်ထံသို့ အသီးသီး ပြန်ပြေးကြရသည်၊ ရှင်ဇနကနှင့် ဦးကေသရတို့လည်း အများနည်းတူ ပြန်ပြေးကြရ၏၊ စစ်ကိုင်းသို့ ပြန်ရောက်လာကြသည်၊ ထိုအချိန်တွင် ရှင်ဇနကတို့၏ ဆရာဘုန်းတော်ကြီး ဦးဉာနာဘိဝံသကား မြန်မာပြည်အောက်ပိုင်း မအူပင်မြို့နယ် **စစ်ချောင်း**ကျေးရွာသို့ ရောက်နေပြီး ၁၀-ဝါမြောက်အဖြစ် ဝါကပ်သီတင်းသုံးကာ စာချလျက် ရှိသည်၊ တစ်နိုင်ငံလုံး အုတ်အော်သောင်းတင်း တုပ်ကွေးရောဂါတွေ ဖြစ်နေ၍ ရှင်ဇနကနှင့် ဦးကေသရ တို့ထံ စာပေး၏၊ ပြန်စာ မရသောအခါ စိုးရိမ် ပူပန်လာသည်၊ ထို့ကြောင့် ပခုက္ကူဆရာတော် **ဦးပညာ**ထံသို့ "ဇနကနှင့် ကေသရတို့ သေကြပလား၊ သံကြိုးပြန်ပါ"ဟု သံကြိုးရိုက်၍ မေးတော့သည်၊ ထိုအခါ ဆရာတော် ဦးပညာက စုံစမ်း၍ "အရပ်ကို ပြန်သွားကြပြီ ဖြစ်ကြောင်း" သံကြိုး ပြန်လိုက်လေသည်။ ။

**စန်းပွင့်ဖို့ရန်အကြောင်းဖန်** ယင်းသံကြိုးစာအရ "ဇနက" ဟူသောအမည်ကို ဆရာတော်ကြီးများ မှတ်မိသွားကြသည်၊ ပခုက္ကူတိုက်ကြီးထဲ၌ ထင်ရှားကျော်ကြားဖို့ မဆိုထားနှင့်၊ ဆရာတော်ကြီးများ၏ နှုတ်ဖျားတွင် မိမိနာမည်ရောက်သွားဖို့၊ မိမိနာမည်မှတ်မိသွားဖို့ပင် မလွယ်ကူလှချေ၊ ယခုသော် ဆရာတော်ကြီးများ၏ နှုတ်ဖျား၌ **"ဇနက"**ဟူသောနာမည် ကျက်မိသွားလေသည်၊ နောက်ပထမကြီးဂေဇက် ထွက်လာသောအခါ **"ရှင်ဇနက"**ဟု ပါလာ၍ ဆရာတော်ကြီးများက "တစ်နေ့တုန်းက ဇနကလား" ဟု မေးတော်မူ သတတ်၊... ဟုတ်မှန်ကြောင်း လျှောက်ကြသောအခါ ဆရာတော်ကြီးများ စိတ်ထဲတွင် အသိအမှတ် ပြုထားတော်မူကြဟန်ရှိ၏၊ ဤသည်ပင်လျှင် ရှင်ဇနကအတွက် စန်းပွင့်ဖို့ရန် လမ်းစ ဖန်တော့သည်။

ထိုခေတ်က ကိုရင်ဝတ်ဖြင့် ပထမကြီးအောင်သူ အလွန်ရှားသည်၊ မန္တလေးစာဖြေဌာနက ရှင်ဇနကတစ်ပါးနှင့် ရန်ကုန်စာဖြေဌာနက ရှင်ဉာဏဝံသ တစ်ပါး၊ တစ်နိုင်ငံလုံးမှ နှစ်ပါးသာ ရှိသည်၊ ထို့ကြောင့် ပထမကြီးအောင်သော ကိုရင်များသည် လွန်စွာ အရေးပေးခံကြရ၏၊ အောက်ပြည်အောက်ရွာ စစ်ချောင်းမှ ဒါယကာ ဒါယိကာမများကလည်း ပထမကြီးအောင်သောကိုရင်ဇနကဆိုတာ တခြားသူမဟုတ်၊ မိမိတို့ရွာမှာ သီတင်းသုံးနေတဲ့ ဘုန်းတော်ကြီး ဦးဉာနာဘိဝံသ၏ တပည့်ဖြစ်ကြောင်း သိကြလေ၏၊ ထို့ကြောင့် ပစ္စည်းကြွယ်ဝသော အမျိုးတစ်စုက "တပည့်တော်တို့ တစ်မျိုးလုံး စုပေါင်းပြီး ရှင်ဇနကကို ရဟန်းခံပါရစေ"ဟု လျှောက်ကြ၏၊ ဘုန်းတော်ကြီးကလည်း သဘောတူ၍ လက်ခံထားတော်မူသည်။ ။

**ရှင်ဇနကစာဆိုရခြင်း** **ရှင်ဇနကနှင့် ဦးကေသ**ရတို့သည် တုပ်ကွေးရောဂါတွေကြောင့် ... ဝါတွင်းကြီးမှာပင် ပခုက္ကူမှ ပြန်လာခဲ့ကြ၏၊ ယခု ဝါကျွတ်သောအခါတွင် ရောဂါများ အေးဆေးသွားကြပြီ ဖြစ်၍ ဦးကေသရ မပါဘဲ ရှင်ဇနကချည်း ပခုက္ကူသို့ ပြန်လာခဲ့သည်၊ စာဝါများကိုလည်း ပြန်၍လိုက်နေပြီ၊ ဆရာတော်ကြီးများက ရှင်ဇနကကို ပထမကြီးအောင်ထားသူ ဖြစ်၍ စိတ်ထဲမှာ အသိအမှတ်ပြုထားတော်မူကြဟန် ရှိ၏။

တစ်နေ့တွင် နောင်တစ်ချိန်၌ အဘိဓဇမဟာရဋ္ဌဂုရု ဖြစ်လာမည့် ဆရာတော်လောင်း စာချဘုန်းတော်ကြီးက သုတ်ပါထေယျပါဠိတော်နှင့် အဋ္ဌကထာ ဆိုနေကျကိုယ်တော် အသံဝင်နေသဖြင့် စာချဘုန်းတော်ကြီး၏ အနားမှာ စာလိုက်နေသော ရှင်ဇနကကို "ကိုရင် ဆိုစမ်းဟဲ့"ဟု ရုတ်တရက် ခိုင်းပါတော့သတတ်။

ကိုရင်ဇနကကလည်း စာလိုက်သံယာ ၂၀၀ ခန့်၏အလယ်တွင် မဆုတ်မဆိုင်း မြင်းကောင်းစိုင်းသို့ ဒိုင်းဒိုင်းပြေး ဆိုလိုက်နိုင်၏၊ အဘယ့်ကြောင့်ဆိုသော် ယင်းပါဠိတော်နှင့်အဋ္ဌကထာကို ပလိပ်မြို့မှာတုန်းကပင် ကိုယ်တိုင်ဆိုဖူးထားသောကြောင့် ဖြစ်သည်၊ နောက်တစ်နေ့တွင် အနားက စာလိုက် ကိုယ်တော်ကြီး တစ်ပါးက ကျောကို လက်နဲ့သပ်ပြီး "ကိုရင် ဘာမှ မကြောက်နဲ့၊ ရဲရဲသာဆို"ဟု အားပေးသည် ဟူ၏။

သို့သော် ထိုစာဝါက သုံးရက်မျှသာ ဆိုလိုက်ရသည်၊ ဆိုနေကျ ကိုယ်တော်က အသံထွက်လာသဖြင့် သူပင် ဆက်လက်၍ ဆိုတော့သည်။

**ရဟန်းခံဖို့ ဆရာစီစဉ်**

ဆရာ ဘုန်းတော်ကြီး ဦးဉာဏာဘိဝံသသည် ရှင် ဇနက အား ရဟန်းခံပေးဖို့အတွက် တာဝန်တစ်ခုရှိသေး၏ဟု စိတ်ထဲမှာ တွေးနေမိ၏၊ ဤကိစ္စအတွက် စစ်ချောင်းမှ ဒါယကာ ဒါယိကာမများကလည်း တာဝန်ယူထားကြသည်၊ ယင်းကိစ္စအတွက် အောက်ပြည်မှ စစ်ကိုင်းသို့ ပြန်ကြွလာ၏၊ ၁၂၈၀ ပြည့်နောက်ပိုင်းတွင် ဖြစ်၏၊ ရှင်ဇနကသည် ဆရာဘုန်းတော်ကြီးနှင့် တွေ့ဆုံရန် ပခုက္ကူမှ ပြန်လာရသည်။

ဆရာ တပည့် စစ်ကိုင်းတောင်ရိုး အရှေ့မှန်ကျောင်းမှာ တွေ့ဆုံကြ၏၊ ရှေးဟောင်းနှောင်းဖြစ်တို့ကို ပြောရင်း "ဆွမ်းဆင်းရဲလွန်းလို့ ပခုက္ကူမှာ နေချင်စိတ်ပင် မရှိတော့ပါ"ဟု ရှင်ဇနက က ဆရာအား လျှောက်ထားမိ၏၊ ထိုအခါ ဆရာက "အောက်ပြည်အောက်ရွာ စစ်ချောင်းကို လိုက်ခဲ့ပါလား"ဟုအမိန့်ရှိသည်ကို ရှင်ဇနကက ကျေနပ်မိ၏၊ ဝမ်းလည်းသာနေသည်၊ မိမိငယ်စဉ်က တူးမြောင်းမှာ ပျော်ခဲ့ရသည်ကိုလည်း ပြန်လည်သတိရနေ၍ မျက်စိထဲ မြင်ယောင်ကာ ကြည်နူးနေမိသည်။

ဆရာဘုန်းတော်ကြီးက "အေးကွဲ့-စစ်ချောင်းကို မသွားခင် သရိုင်က မိဘများကို တို့က ပန်ကြားဖို့တာဝန် ရှိသေးတယ်၊ ပြီးတော့ ဒီကြားထဲမှာ နှုတ်ဆက်ရင်း အကျိုး အကြောင်း ပြောရအောင် ပလိပ်ကို ခဏသွားလိုက်ဦးမယ်"ဟုဆို၍ ပလိပ်မြို့ကို ကြွသွားလေသည်။

**"အစိန္တိတမ္ပိ ဘဝတိ, စိန္တိတမ္ပိ ဝိနဿတိ"** ဆိုသလို အရာခပ်သိမ်း စိတ်ကူးတိုင်း ကြံစည်တိုင်း ဖြစ်မလာတတ်သည်ကား ဓမ္မတာပါပေ၊ ယခုလည်း ပလိပ်ကို ရောက်သွားကာမှ ကြံစည်မထားခဲ့သော အရာတို့သည် တစ်မျိုးတစ်ဖုံ ပြောင်းလွဲသွား၏။

**ဒကာမ မပုက**..."ကိုရင့်ကို တပည့်တော်မတို့က ရဟန်းခံမယ်လို့ရည်စူးထားတာပဲ၊ အောက်ပြည်အောက်ရွာကို မပေးနိုင်ပါဘူး"ဟု လျှောက်တော့သည်၊ ဘုန်းတော်ကြီးမှာ စကားပရိယာယ်လည်း မကြွယ်ဝ, နဂိုကလည်း ဒကာမ မပုနှင့် ရင်းနှီးမှု ရှိနေခဲ့သည့်အတွက် ဘာမှ မငြင်းနိုင်တော့ပေ။ ။

**ရှင်ဇနက ရဟန်းဘဝသို့**

ထိုသို့ ဖြစ်နေသောအခါ ... စစ်ကိုင်း တောင်ရိုး ချမ်းအေး ဆရာတော်ကြီးက မဟာဂန္ဓာရုံဆရာတော်ကြီးနှင့် တိုင်ပင်တော်မူကြသည်။

"ကိုရင်က ကျောင်းတိုက်တည်ပြီး ဆရာတော်လုပ်နိုင်လောက်အောင် အရည်အချင်းရှိနေတယ်၊ မိပုက ပစ္စည်းအားထက် သဒ္ဓါအားက ပိုကောင်းတယ်၊ ဒီတော့ မိပုက ကျောင်းတိုက်တည်ပေးဖို့ မလွယ်ဘူး၊ ဒါကြောင့် ပစ္စည်းလေးပါး ဒကာမလည်း ဖြစ်, ဂန္ဓာရုံ ကျောင်းအမလည်း ဖြစ်တဲ့ အမရပူရမြို့ တရုတ်တန်းက **ဒကာမ မကြည်**နဲ့ **ဒကာမ မညွန့်**တို့ ညီအစ်မကိုလည်း ရဟန်းအမလုပ်ခိုင်းမှ တော်မယ်"ဟု တိုင်ပင်တော်မူကြသတတ်။

ဤသို့ ဆရာတော်ကြီးများ တိုင်ပင်တော်မူကြသည်မှာလည်း နောက်ကြောင်းရာဇဝင် ရှိ၏၊ တစ်ချိန်တုန်းက ထိုကျောင်းအမများ ရဟန်းခံ၍ အရေးပေးကာ ဖူးဖူးမှုတ်ထားသော ကိုယ်တော်တစ်ပါး လူထွက်သွားဖူးသည်။

ထိုအခါ "ရုပ်ရည် ချောလို့သာ လူထွက်သွားခြင်းဖြစ်သည်" ဟု ကောက်ချက်ချကြ၏၊ နောက်တော့ အရုပ်ဆိုးတဲ့ ကိုရင်ကိုသာ ရဟန်းခံပေးတော့မည်ဟု ဆိုကာ "စာတတ်ပြီးတော့ အရုပ်ဆိုးတဲ့ ကိုရင်များ ရှိရင် ပေးပါဘုရား"...ဟူ၍ လျှောက်ထားဖူးကြသတတ်။

ထိုစကားအရ ကိုရင်ဇနကကို ဆရာတော်ကြီးများက ပေးလိုက်ခြင်းဖြစ်သည် ဟူ၏၊ သို့သော် ကိုရင်ဇနကကား သူတို့ပြောသလို ရုပ်ရည်မဆိုးလှပါ၊ စာတတ်သောကြောင့်သာ ဆရာတော်ကြီးများက ပေးဖို့ တိုင်ပင်ကြခြင်း ဖြစ်ပါသတတ်။

ထိုသို့ တိုင်ပင်တော်မူကြပြီးနောက် ဒကာမ မပုကိုလည်းငဲ့ညာထောက်ထားရာရောက်အောင် ဒကာမ မပုက ပထမ, တောင်မြို့ အမရပူရ ကျောင်းအမများက ဒုတိယ, သရိုင်မှ မိဘရင်း ဒါယကာကြီး ဒါယိကာမကြီးများက တတိယဟု ရဟန်းခံဖို့ရန် အစီအစဉ်ကို ချမှတ်တော်မူကြ၏၊ ယင်း အစီအစဉ်အတိုင်း သက္ကရာဇ် ၁၂၈၀ ပြည့်နှစ် တပေါင်း လပြည့်နေ့မှာ ပလိပ်မြို့ အေးကျောင်း ခဏ္ဍသိမ်တော်၌ စစ်ကိုင်းတောင်ရိုး မဟာဂန္ဓာရုံ ဆရာတော်ဘုရားကြီးကို ဥပဇ္ဈာယ် ပြု၍ ပထမအကြိမ် ရဟန်းအဖြစ်သို့ ရောက်ခဲ့လေသည်။

**ဒုတိယအကြိမ် သိက္ခာထပ်**

ပထမအကြိမ် ... ပလိပ်မြို့မှာ ရဟန်းခံပြီးနောက် ဆရာတော်ဘုရားကြီးများထံ ကူးချည်သန်းချည် ချဉ်းကပ်နေထိုင်ရင်း ထိုနှစ် ကုန်ဆုံးခြင်းသို့ ရောက်လေသည်။

နောက်တစ်နှစ် ၁၂၈၁-ခု နှစ်သစ်ဦး နယုန်လပြည့်နေ့, ထိုနေ့ကား ဆရာတော်ဘုရားကြီး၏ အစီအစဉ်အတိုင်း အမရပူရမြို့ မဟာဂန္ဓာရုံ ကျောင်းတိုက်အတွင်းက ခဏ္ဍသိမ်မှာ ဒုတိယ အကြိမ် သိက္ခာထပ်သောနေ့ ဖြစ်သည်၊ ရဟန်းအမများမှာ ပစ္စည်းရော သဒ္ဓါပါ ပြည့်စုံသူများ ဖြစ်ကြ၏၊ စစ်ကိုင်းတောင်ရိုး မဟာဂန္ဓာရုံဆရာတော်ကြီးနှင့် ချမ်းအေးဆရာတော်ကြီး နှစ်ပါးလုံး၏ အရင်းနှီးဆုံးများလည်း ဖြစ်ကြသည်၊ ဤတွင် ရှင်ဇနကနှင့် အမရပူရ ဆွေမျိုးစ၍ တော်ကြခြင်း ဖြစ်၏၊ ဤသို့ ဒုတိယအကြိမ် သိမ်ထပ်ပြီးသော



ရဟန်းအမ ဒကာမ မညွန့်

အခါ ဆရာဘုန်းတော်ကြီး ဦးဉာဏာဘိဝံသက "ငါတော့ ပခုက္ကူမှာပဲ ပြန်နေစေချင်သေးတာပဲ၊ ဆွမ်းက သိပ်ဆင်းရဲသလား"ဟုမေးတော်မူသည်၊ စစ်ချောင်းကို ရဟန်းလောင်း မပေးနိုင်သည့်အတွက် အောက်ပြည် လိုက်ခဲ့ဖို့ရန် စီမံကိန်းလည်း ပျက်သွားခဲ့သည်၊ သူလည်း စစ်ချောင်းက ဒါယကာ ဒါယိကာမများအား မျက်နှာပူဟန် တူသည်။

**အရှင်ဇနက**သည် ကျောင်းသားငယ် ဘဝမှ စ၍ ဆရာ့စကားကို မြေဝယ်မကျ နားထောင်လာခဲ့သူ ဖြစ်သည်၊ ဆရာညွှန်ကြားသည့်အတိုင်း လိုက်နာခဲ့သူ ဖြစ်သည်၊ ထို့ကြောင့်လည်း အရွယ်နှင့်မလိုက်အောင် ထူးချွန်ခဲ့ရသည်၊ ယခုလို အသိဉာဏ် ကြွယ်ဝလာသည့်အဖြစ်သို့ ရောက်သောအခါတွင်ကား အဘယ်မှာလျှင် ဆရာ့စကားကို မလိုက်နာဘဲ နေတော့မည်နည်း၊ "နေစေချင်လည်း နေတာပေါ့ဘုရား၊ ဆွမ်းဆင်းရဲတာကတော့ အများထုံးစံပါပဲ"ဟု လျှောက်ထားပြီးလျှင် ပခုက္ကူသို့ပင် ပြန်၍ ဝါဆိုနေလိုက်တော့သည်။



ပထမ မဟာဂန္ဓာရုံဆရာတော် အရှင်ဥတ္တရမဟာထေရ် (၁၂၂၀–၁၂၈၁)

**ဥပဇ္ဈာယ်ဆရာ ပျံလွန်တော်မူခြင်း**

အရှင်ဇနကကို ပခုက္ကူသို့ ပြန်လွှတ်ပြီးနောက် ... စစ်ကိုင်း မဟာဂန္ဓာရုံ ဆရာတော်ကြီးက အမိန့်ရှိသည်၊ "ကွယ်ရာ ဝေးရာ၌ ပျက်စီးမှာ စိုးရိမ်ရသည်၊ စာချဘုန်းကြီးပါ လိုက်ပြီး စောင့်ရှောက်လျှင် ကောင်းမည်"ဟု မိန့်သဖြင့် ဘုန်းတော်ကြီးဦးဉာနာဘိဝံသက စစ်ကိုင်း မှန်ကျောင်းက **ဦးသောမ**နှင့်အတူ ပခုက္ကူသို့ လိုက်ပါ ဝါဆို စောင့်ရှောက်တော်မူကြ၏။

သို့သော် စာချဘုန်းတော်ကြီးမှာ မကျန်းမာသဖြင့် ဝါတွင်းမှာပင် စစ်ကိုင်းသို့ ပြန်ခဲ့ရသည်၊ အရှင်ဇနကလည်း ဆရာကို လိုက်ပို့ရင်း စစ်ကိုင်း ရောက်သောအခါ မိမိ၏ ဥပဇ္ဈာယ်ဆရာ မဟာဂန္ဓာရုံ ဆရာတော်ထံ ဝင်ရောက် ကန်တော့၏၊ ထိုအခါ ဆရာတော်သည် မဟာသုခချောင်၌ မကျန်းမမာ ဖြစ်တော်မူနေပါလေပြီ၊ ထို့နောက် ပခုက္ကူမှနေ၍ "မဟာဂန္ဓာရုံဆရာတော် ပျံလွန်တော်မူပြီ"ဟု ကြားရပါတော့သည်။ (သက္ကရာဇ် ၁၂၈၁-ခု ဝါတွင်း ဝါခေါင်လဆုတ် ၈-ရက်နေ့၌ ပျံလွန်တော်မူ၏။) ထိုဆရာတော်ကြီးမှာ အကျင့် ပဋိပတ်ဘက်တွင် အလွန်ကျော်ကြားတော်မူ၏၊ တစ်ခါက လူတွေ့မခံဘဲ ၃-နှစ်လောက် ဂူအောင်းတော်မူဖူး၏၊ ပျံလွန်တော်မူမည့် ညက စစ်ကိုင်းတောင်ရိုးတစ်ခုလုံး ဝင်းဝင်းဝါဝါအရောင်တွေ ဟိုက လာ ဒီက လာနှင့် ဆရာတော်ကြီး ရှိရာ မဟာသုခချောင်ဆီသို့ ဦးတည်ပျံသန်း သွားလာနေကြသည်ဟု နံဘေးမှ မြင်ရသူများက ပြောကြဆိုကြသည်။

မဟာဂန္ဓာရုံဆရာတော်သည် ဂူက ထွက်လာပြီးနောက် မကြာမီ အရှင်ဇနကကို နောက်ဆုံး ဥပဇ္ဈာယ်အဖြစ် ချီးမြှောက်တော်မူသွား၏၊ ဆရာတော်ကြီးများက မည်သို့ မည်ပုံ မြော်မြင်ထားသည် မသိပါ၊ ထို့ကြောင့် အရှင်ဇနကမှာ မဟာဂန္ဓာရုံ ဆရာတော်ဘုရား၏ နောက်ဆုံး ဥပဇ္ဈာယ်ယူ သဒ္ဓိဝိဟာရိကတပည့်ဟု ဆိုထိုက်ပါတော့သည်။ ။

## တတိယဆယ်စုနှစ်

## ၁၂၈၁–၁၂၉၁





သက်တော် ၂၆–နှစ် အရွယ်ရှိ
အရှင်နေကာဘိဝံသ၏
ပထမကျော်အောင်မြင်ချက်

# ရဟန်းဘဝဖြင့် ပခုက္ကူသို့ ပြန်ရောက်သောအခါ

**ပခုက္ကူမှာ စာဆိုဖြစ်ခဲ့**

အရှင်ဇနက ဒုတိယအကြိမ် သိက္ခာထပ်ပြီးနောက် ပခုက္ကူသို့ပြန်ရောက်သော ခုနှစ်မှာ **၁၂၈၁**-ခုနှစ်ဖြစ်၏၊ ဝါဆိုဦးတွင် စာဝါများ စီစဉ်နေကြပြီ၊ ထိုစဉ်က အဘိဓမ္မမဟာရဋ္ဌဂုရု ဆရာတော်လောင်း စာချဘုန်းတော်ကြီးက သမ္မောဟဝိနောဒနီနှင့် မူလဋီကာ ချဖို့ရန် စီစဉ်နေပြီး ယင်းစာချဘုန်းတော်ကြီးက အရှင်ဇနကအား မူလဋီကာဆိုရန် တာဝန်ပေးလေ၏၊ အရှင်ဇနက၏ စာဆိုပဟန် အာ,လျှာ, အသံ, ဌာန်တို့ကို ယခင် သာမဏေဘဝက အစမ်းသဘောဖြင့် ၃-ရက်လောက် ဆိုစေစဉ်က ပင် ကျေနပ်တော်မူပြီး ဖြစ်သည်၊ ထို့ကြောင့် ယခုအခါ ကိုယ်ပိုင်ဆိုဝါအဖြစ် ရရှိအောင် ချီးမြှောက်တော်မူလေပြီ။

ယခုလို စာဆိုဖြစ်လာပြန်တော့လည်း အများက အထင်မသေးအောင် ပို၍ ကြိုးစားရပြန်၏ ဟု ဆိုသည်၊ မိမိ ဆိုရသည့် စာဝါကို ကြေညက်နေအောင် အထပ်ထပ် ကြည့်ရ၏၊ ကြိုတင်လေ့လာထားရ၏၊ "အများထက် နှစ်ဆလောက်မက လုံ့လဝီရိယ ရှိရတော့သည်"ဟု တစ်ခါတစ်ခါ ပြန်လည် အမိန့်ရှိဖူး၏။

ဤသို့ဖြင့် တစ်ဝါကျွတ်လေပြီ၊ ထိုဝါကျွတ်ကာလတွင် မဟာဝိသုတာရာမတိုက်ကြီးမှ ခွဲ၍ **မဟာဝိဇယာရာမတိုက်**ဟူ၍ စာသင်တိုက်ကြီး တစ်တိုက် ပေါ်လာသည်၊ အတိအကျဆိုရလျှင် ၁၂၈၁-ခု တန်ဆောင်မုန်းလဆုတ် ၃-ရက်နေ့တွင် ဖြစ်၏၊ အချို့စာသင်သားများလည်း မဟာဝိဇယာရာမတိုက်သို့ ပြောင်းရွှေ့နေကြသည်။

**တတိယအကြိမ် သိက္ခာထပ်**

အရှင်ဇနကမှာ ... တတိယအကြိမ် သိက္ခာထပ်ဖို့ မဟာဂန္ဓာရုံ ဆရာတော်ကြီးများ အမိန့်ချထားသောကိစ္စ ရှိသေး၏၊ မိဘများက စီမံထားသည်မှာ **၁၂၈၁-ခု တပေါင်းလပြည့်နေ့** ဖြစ်သည်၊ ထို့ကြောင့် ထိုရက်နီးသောအခါ ပခုက္ကူဆရာတော်များကို လျှောက်ထား၍ စစ်ကိုင်းသို့ ပြန်လာခဲ့၏၊ စစ်ကိုင်းတောင်ရိုး မှန်ကျောင်းမှာ တည်းခိုပြီးလျှင် ဆေးတိုက်အနီးက မြစ်တွင်း ဥဒကုက္ခေပ ရေသိမ်မှာ တတိယအကြိမ် သိမ်ထပ်ပွဲ ပြုလုပ်ကြသည်၊ ထိုအချိန်မှာ ပထမဥပဇ္ဈာယ် မဟာဂန္ဓာရုံဆရာတော် မရှိတော့ပြီ၊ ထို့ကြောင့် စစ်ကိုင်းတွင် ခေတ္တသီတင်းသုံးနေခိုက် ဖြစ်သော တတိယ ရွှေကျင်သာသနာပိုင် ဒီပဲယင်းဆရာတော်ဘုရားကြီးက ဥပဇ္ဈာယ်အဖြစ် ချီးမြှောက်တော်မူသည်၊ ဤတတိယအကြိမ် သိမ်ထပ်ချိန်မှာ အသက် ၂၀ နှင့် ၁၅ ရက်သာ ရှိသေး၏။ {ပထမနှင့် ဒုတိယ အကြိမ်များတုန်းက ပဋိသန္ဓေရက်နှင့် ရဟန်းခံခဲ့သည်။}

ဤသို့ တတိယအကြိမ် သိမ်ထပ်ပြီးနောက် ရက်များ မကြာမီပင် ဆိုလက်စ စာဝါများရှိသေး၍ ပခုက္ကူသို့ ပြန်ခဲ့သည်။

**ဒုတိယဆိုဝါ ရရှိပြန်ခြင်း**

အဘိဓမ္မမဟာရဋ္ဌဂုရုဆရာတော်လောင်း စာချဘုန်းတော်ကြီးထံတွင် မူလဋီကာ ဆိုပြီးနောက် ဒီဃနိကာယ် အဋ္ဌကထာကို ဆိုနေတုန်းမှာ ညောင်တုန်းဆရာတော်က သံယုတ်အဋ္ဌကထာကို အဆိုခိုင်းပြန်သဖြင့် တစ်နေ့တည်း နှစ်ဝါ, နှစ်ဝါ ဆိုနေရတော့၏၊ ထိုအချိန်က သံယုတ်အဋ္ဌကထာကို ပေရွက်ဖြင့် ဆိုရသည်၊ စာအုပ်ရိုက်ပြီး မရှိသေး၊ ထို့ကြောင့် ဆိုဝါ တစ်ဝါလျှင် ပါဠိစာရွက်ဖြင့် နှစ်ရွက်စီ နှစ်ရွက်စီ လေးမျက်နှာခန့်(အနက်ရှစ်မျက်နှာခန့်)ရှိ၏၊ ယင်းပါဠိ လေးမျက်နှာခန့်ကို နှစ်ခေါက်ဆိုရသဖြင့် တစ်နေ့လျှင် ပါဠိ ရှစ်မျက်နှာ ဖြစ်တော့သည်၊ မသက်သာလှပေ။

သို့သော်လည်း "မိုးရွာတုန်း ရေခံ"ဟူသော စကားပုံကဲ့သို့ ယခုလို အခွင့်သာတုန်း ဆရာတော်များက လိုလိုလားလား ချီးမြှောက်တော်မူတုန်းမှာ အရယူဖို့သာ တာဝန်ရှိ၏၊ ပင်ပန်းသည်ကို အမှုမထားနိုင်၊ ထိုဆိုဝါ နှစ်ဝါအပြင် ဆရာတော်ကြီး **ဦးပညာ**ထံတွင်လည်း အခြားစာတစ်ဝါ လိုက်လိုက်သေး၏၊ ပခုက္ကူတိုက်ကြီးထဲမှာ ပါဠိတော် အဋ္ဌကထာ ဋီကာ လိုချင်ရာရာ စာဝါတွေက ပေါပါဘိခြင်း, အရှင်ဇနကမှာ မမောနိုင် မပန်းနိုင် ကွင်းပြင်ထဲမှာ အဖွေးသား ကြွေကျနေကြသော မိုးသီးတို့ကို ကောက်ယူရသည့်အလားဖြစ်နေတော့သည်။ ။

**မီကုန်ယမ်းကုန် ကြိုးစားခဲ့ရ**

အရှင်ဇနကသည် ကိုယ်တိုင်ဆိုဝါ နှစ်ဝါနှင့် လိုက်ဝါ တစ်ဝါကို ဝတ်မပျက် စက်ပတ်လည်အောင် ကြိုးစားရ၏၊ ယနေ့အတွက် စာဝါများ အားလုံးသိမ်းချိန်တွင် အခြားပုဂ္ဂိုလ်များမှာ အနားယူခြင်း, အညောင်းဖြေခြင်း, လမ်းလျှောက်ခြင်း ပြုနိုင်ကြသော်လည်း အရှင်ဇနကမှာ ထိုသို့ အခွင့်မရ၊ နောက်တစ်နေ့ဆိုဖို့ရာ မိမိစာဝါများကို ပြင်ဆင်နေရပြီ၊ ပထမ ပါဠိတော်ကို အဋ္ဌကထာနှင့်တွဲ၍ တစ်ခေါက်ကုန်အောင် ကြည့်လိုက်၏၊ ပြီးမှ နောက်တစ်ခေါက် ဋီကာနှင့်ပါ တွဲ၍ ကုန်အောင် ကြည့်ရပြန်သည်၊ ခက်ခဲသောနေရာနှင့် တွေ့လျှင် ကြံရ စည်ရသေး၏၊ "တစ်ခါတလေ များ ဘေးတုတ်အောင် ကြံရသည်"ဟု မကြာမကြာ ပြန်လည် အမိန့်ရှိတတ်ပါ၏။

စာဝါများ ကြည့်ပြီးချိန်လောက်မှာ နေဝင်၍ သွားလေပြီ၊ ထို့နောက် ဘုရားဝတ်တက်ကြ၏၊ ညပိုင်းတွင် မီးဖြင့် စာမကြည့်ဝံ့၊ နံနက်စောစောထ၍ စာမမြင်ခင် သပိတ်ကို ဆေးကြောပြင်ဆင်ထားလိုက်၏၊ စာမြင်ရသောအခါ ယနေ့ဆိုရမည့် စာဝါများကို ထပ်မံပြီး အသေးစိတ်ကြည့်၊ ဤသို့ ကြည့်ရှုလေ့လာပြီးမှ ဆွမ်းခံသွား၊ ဆွမ်းခံမှအပြန် ခပ်သုတ်သုတ်စား၍ စာဆိုရမည့် နေရာသို့ သွားတော့သည် ဟူ၏၊ ဤနည်းအတိုင်း နေ့စဉ်စက်ပတ်လည်နေတော့သည်။ ... ဤသို့လျှင် သာသနာတွင် အရာဝင်ဖို့ရာအတွက် အသက်ကို မငဲ့ကွက်နိုင်ဘဲ မီးကုန်ယမ်းကုန် ကြိုးစားနေရတော့သည် ဟူ၏။ ။

**တတိယ ဆိုဝါ ထပ်၍ရရှိပြန်**

ဤသို့လျှင် ပင်ပန်းသောစာသင်သား တစ်ပါးအတွက် ပြည့်စုံလုံလောက်သော အစာအာဟာရ မရပါဘဲလျက် ယခုကဲ့သို့ ဘေးမမြင် ရန်မမြင် ကြိုးစားနေသည်မှာ အမှန်စင်စစ် အသက်အန္တရာယ်နှင့်နီးလှပေ၏၊ သို့တစေလည်း "သေရမည်ထက် အောက်ကျ နောက်ကျ ဖြစ်ရမည်ကို ပို၍ အရှင်ဇနကက မလိုလားခဲ့"ဟု ဆို၏။

ထို့ကြောင့် "သေလျှင် မြေကြီး, ရှင်လျှင် ရွှေထီး"စကားပုံအတိုင်း မလျှော့သော ဇွဲဖြင့် ဇွတ်ကဲလျက် သဲသဲမဲမဲ ကြိုးစားနေခဲ့ခြင်း ဖြစ်သည်၊ ဤသို့ ကြိုးစားနေခဲ့ရာ အဘိဇေမဟာရဋ္ဌဂုရုလောင်း ဆရာတော်က စာတစ်ဝါအကုန်တွင် "ဇနက တော်လောက်ပြီ"ဟု ပြော၍ စာဆိုရပ်လိုက်သည်၊ ထို့ကြောင့် ဆိုဝါအဖြစ် တစ်ဝါသာ ကျန်တော့၏။

သို့သော် မကြာမြင့်မီပင် ပထမဆရာတော်ကြီး ဦးပညာက ခေါ်၍ အဘိဓမ္မာအဋ္ဌကထာ တတိယအုပ်ကို ဆိုရမည်ဟု ချီးမြှင့်တော်မူပြန်၏၊ သို့အတွက် ဆိုဝါ နှစ်ဝါပင် ပြန်၍ ဖြစ်လေသည်။

အရှင်ဇနကသည် အများပရိသတ် ကျေနပ်လောက်အောင် စာဆိုနိုင်စွမ်း ရှိလေသည်၊ ထိုစဉ်က စာလိုက် ပရိသတ်ထဲတွင် ပါဝင်ခဲ့ဖူးသော ဆရာတော်ကြီး တစ်ပါးက ယခုအခါ ဤသို့ ပြန်လည် ပြောပြပါ၏။

"ဦးဇနကဟာ စာဆိုသိပ်တော်တာပဲ၊ အကင်းပါးတယ်၊ အရိပ်အခြည်သိတယ်၊ ဖျတ်လတ်တယ်၊ စာဆိုရင်း စာမှားသွားတဲ့အခါ ဆရာတော်ကြီး ဦးပညာက "ဟင်း"လို့ တစ်ချက်ငေါက်လိုက်ရင် ဒေါက်ဒေါက်-ဒေါက်ဒေါက်နဲ့ ပြင်ဆိုသွားနိုင်တာ၊ ကြိမ်တို့ မခံသော မြင်းကောင်းပမာပါပဲ"

အရှင်ဇနကအဖို့ ပခုက္ကူ၌ ဘုန်းကံနည်းပါးလာဘ်လာဘရှားသော်လည်း ပညာရေးဘက်တွင်မူကား ဤသို့လျှင် ဆရာတော်ကြီးများက ချီးမြှောက်သည်ကို အများထက်ပို၍ ရသည်ဟုပင် ဆိုရပေမည်၊ တစ်နည်းအားဖြင့်လည်း ဤသို့ ဘုန်းကံနည်းပါးခြင်းသည်ပင် အရှင်ဇနကအဖို့ စာပေကြိုးစားဖို့ အခွင့်ရသလို ဖြစ်နေ၏၊ ဘုန်းကံကြီးမားလျှင် ဤသို့ ကြိုးစားချင်မှ ကြိုးစားပါမည်၊ သို့မဟုတ် ကြိုးစားခွင့် ရချင်မှ ရပါမည်။ ။

**စောင့်စည်းတဲ့ အလေ့အကျင့်**

ပခုက္ကူမှာ ဝံသာနုတရားပွဲတွေ ခေတ်စားလာချိန်တွင် အများက သွားလာကြသော်လည်း အရှင်ဇနကမှာ နောက်ပိုင်း၌ မသွားတော့ချေ၊ ဆရာတော်များက အကြောင်းရှိ၍ "ဇနကကို ခေါ်လိုက်စမ်း"ဆိုလျှင် မတွေ့မည်စိုးသောကြောင့်ဟု ဆိုသည်၊ ဆရာတော်များကိုလည်း ရိုသေ၊ မိမိကရွှေကျင်ဂိုဏ်းသားဖြစ်၍လည်း အထင်သေးမည်စိုးသောကြောင့်ဟူ၏၊ အရှင်ဇနကမှာ ဝါသနာတစ်ခုရှိသည်၊ ယင်းမှာ ဒုတိယနေရာကိုရောက်လျှင် ပထမနေရာကို လေးစားတတ်သည့်အလေ့ပင် ဖြစ်၏၊ ပခုက္ကူမှာ နေထိုင်စဉ်တွင် မူလမန္တလေးမှ ရွှေကျင်ဂိုဏ်းနှင့် ဆရာတော်များကို အထင်မသေးအောင် စောင့်စည်းခဲ့ရ၏၊ တစ်ဖန်မန္တလေးသို့ ပြန်ရောက်သောအခါတွင်လည်း ပခုက္ကူကို အထင်မသေးအောင် အစစအရာရာ ဆင်ခြင်ရပြန်၏ဟု မိန့်တော်မူဖူးသည်၊ တစ်ခါ ပခုက္ကူ ဓမ္မမဥ္ဇူကျောင်းမှာနေစဉ် တစ်နေ့သ၌ မိုးအေးအေးမှာ စာမတက်ရ၍ ဝိုင်းဖွဲ့စကားပြောဆေးလိပ်သောက်နေကြ၏၊ အရှင်ဇနကလည်း စာကြည့်ပြီး၍ ထိုဝိုင်းသို့ သွားပြီးထိုင်မိသည်။

မိုးအေးအေး မီးခိုးငွေ့တလူလူနှင့်သောက်ချင်စရာ ကောင်းလှ၏၊ တစ်ပါးက "မသောက်ချင်ဘူးလား"ဟု မေးသည်၊ အရှင်ဇနကက"သောက်ချင်သားပဲ"ဟု ဖြေသောအခါ "သောက်ချင်သောက်ပါလား"တဲ့၊ ထိုအခါ အရှင်ဇနကက ပြုံးပြီး "ဇာတ်ပျက်သွားလိမ့်မယ်"ဟု ပြောသဖြင့် အားလုံးပြုံးကြသည်ဟူ၏၊ တစ်ခါတွင်လည်း ထိုဝိုင်းမျိုးတွင် သွား၍ ထိုင်မိရာ မြောင်းမြဆရာတော်လောင်းက"ဟဲ့-ဇနက...ဘာလုပ်နေတာတုံး"ဟု ငေါက်လေ့ရှိသော အသံကို နားထဲမှာ ကြားသလို ဖြစ်လာ၍ ချက်ချင်းကိုယ့်နေရာကိုယ်ပြန်ပြီး စာကြည့်နေလိုက်ရသည် ဟူ၏။ ။

**ဆရာတော်သုံးပါးထံ စာဆိုခွင့်ရခဲ့**

အရှင်ဇနကမှာ ... စာပေဘက်သာလျှင် စည်းကမ်းထားသည် မဟုတ်သေး၊ အနေအထိုင်ဘက် ဆရာသမားများနှင့် ဆက်ဆံရေးဘက်မှာလည်း စည်းကမ်းထား၍ လေးစားခဲ့သည်၊ ဆရာတော်ကြီးများလည်း သိတော်မူကြ၏၊ ထို့ကြောင့်ပင် ဆရာတော်ကြီး သုံးပါးလုံးက အသီးသီးခေါ်၍ ဆိုဝါ တစ်ဝါစီ ပေး၍ ချီးမြှောက်တော်မူကြခြင်း ဖြစ်ပါလိမ့်မည်၊ ဆရာတော်ကြီးများက အရှင်ဇနကအား စာပေ ပိဋကတ် သက်သက်မျှသာ သင်ပေးသည် မဟုတ်သေး၊ ကံကြီး ကံငယ် ဆောင်ရွက်ပုံကိစ္စကိုလည်း လက်ထပ်သင်ပေးတော်မူကြ၏၊ ယခင်တုန်းက စာပေသက်သက်မျှသာ နားလည်ခဲ့ရာ ယခုအခါတွင် ပခုက္ကူကျေးဇူးရှင်ဆရာတော်တို့၏ ကောင်းမှုကြောင့် ရဟန်းခံကိစ္စ သိမ်သမုတ်ကိစ္စများ၌ပါ အဝါးဝစွာ နားလည်နေရလေပြီ။

တစ်ခါက **"ကျဲဘို့"**ဆိုသော ရွာမှာ ရဟန်းခံ သိမ်သမုတ်ကိစ္စရှိ၍ ပထမဆရာတော် (ဆရာတော် ဦးပညာ)က အရှင်ဇနကကို ခေါ်သွား၏၊

တရားလည်း အဟောခိုင်း၏၊ သိမ်သမုတ်နည်းကိုလည်း လက်ထပ်သင်ပေးတော်မူသည်၊ နံနက်စောစောတွင် ထိုနယ်က ဆရာတော်ကြီးတစ်ပါးနှင့် ဆရာတော်ဦးပညာတို့ လက်ဖက်ရည် ဘုဉ်းပေးကြ၏၊ အရှင်ဇနကက လက်ဖက်ရည် ငှဲ့ပေးသည်၊ မုန့်များကို ဆရာတော်များ၏ ပန်းကန်ထဲက တိုက်ရိုက်ယူမစားဘဲ အခြားပန်းကန်တစ်ချပ်ဖြင့် ခွဲယူ၍ စားသည်၊ လက်ဖက်ရည်ကိုလည်း သောက်၏၊ ဒူးတုပ်လျက်လည်း ထိုင်နေသည်၊ ထိုအခါ ထိုနယ်က ဆရာတော်ကြီးက အရှင်ဇနကကို ကြည့်၍ "ဦးပဥ္စင်းလေးက ရွှေကျင်လား, ဒွါရလား"တဲ့ မေးတော်မူသည်၊ ပခုက္ကူဆရာတော်က... "ရွှေကျင်ပေါ့ဗျာ, ရွှေကျင်ရွှေကျင်"တဲ့၊ ဖြေတော်မူသည်။

နောက်တစ်ကြိမ်တွင်လည်း ဤသို့ပင် ကြုံရပြန်၏၊ **"စိမ့်ကန်"**ဆိုသောရွာ ဖြစ်သည်၊ သိမ်သမုတ်ကိစ္စပင်တည်း၊ ညောင်တုန်းဆရာတော်* က အရှင်ဇနကကို ခေါ်သွား၏၊ ယခင်နည်းအတိုင်း နံနက်စောစော လက်ဖက်ရည် ဘုဉ်းပေးကြရာ အရှင်ဇနကက ငှဲ့ပေးသည်၊ ဒူးတုပ်လျက်ရှိသေစွာထိုင်၏၊ ပန်းကန်ပြားတစ်ချပ်ဖြင့် မုန့်ကိုခွဲယူ၍ စားနေစဉ် ထိုနယ်က ဆရာတော်ကြီးတစ်ပါးက "ဦးပဥ္စင်းလေးက ရွှေကျင်လား, ဒွါရလား"တဲ့၊ မေးပြန်သည်၊ ထိုအခါ ညောင်တုန်းဆရာတော်က "ရွှေကျင်ပေါ့ဗျာ, ရွှေကျင်မှ မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားနဲ့တောင် သွေးသားတော်စပ်သေးတယ်"ဟု ဖြေတော်မူပြန်၏။ ။

**မျက်စိများ ကန်းလုနီးပါးမျှ** သက္ကရာဇ် ၁၂၈၃-ခုနှစ် ရဟန်း သုံးဝါ ရချိန် ... သီတင်းကျွတ် လထဲတွင် ဖြစ်၏၊ အရှင်ဇနကမှာ မျက်စိများ အလွန်အားနည်းနေပြီး ဆီးပါ အလွန်ဝါ၍ ဆီးရောဂါ ဖြစ်နေလေပြီ။

ညောင်တုန်းဆရာတော်ထံ စာဆိုနေစဉ်မှာပင် စာလုံးတွေ ကြည့်လို့မမြင်ရအောင် ဖြစ်သွားသည်၊ ထို့ကြောင့် စာဝါတွေ နားပြီး မန္တလေးသို့ ခေတ္တပြန်ခဲ့သည်။

ထိုအချိန်က နဝမ ကွန်ဖရင့်က မန္တလေးမှာ ကျင်းပရန် နီးကပ်နေပြီဖြစ်၍ သင်္ဘောပေါ်တွင် ကိုယ်စားလှယ် ခေါင်းဆောင်ကြီးများတချို့ ပါလာကြ၏၊ မန္တလေးဆိပ်ကမ်းက ကြိုဆိုနေသောကမ်းလုံးညွှတ် လူထုပရိသတ်ကြီးကို အဝေးကနေပြီး အများမြင်ကြသော်လည်း အရှင်ဇနကမမြင်, အနားရောက်မှပင် မြင်ရတော့၏၊ ထိုမျှလောက် အားနည်းနေပြီး မျက်စိများ ကွယ်လုလုမျှ ဖြစ်ရတော့သည်။

ထို့နောက် မန္တလေးသို့ ရောက်သောအခါ ဆေးရုံသွား၍ မျက်စိပြ၏၊ ထိုမှတစ်ဖန် ပလိပ်ရဟန်းအမ၏ ခင်ပွန်းက ဓာတ်စာပေး၍ ထိုဓာတ်စာဖြင့် ကုသပြန်သည်၊ ထို့ပြင် သရိုင်ရွာမိဘရပ်ထံသို့ သွား၍ သင့်လျော်သော ဆေးဝါးဓာတ်စာတို့ကို ရသဖြင့် နှစ်လလောက်ကြာသောအခါ သက်သာ ပျောက်ကင်းလာလေသည်။

ထို့ကြောင့် "ပခုက္ကူကို ပြန်ဦးမည်၊ မကုန်သေးသော ပဋ္ဌာန်းအဋ္ဌကထာနှင့် ဋီကာတို့ကို ကုန်အောင် ဆိုဦးမည်၊ ပြီးမှ လာမည့်ဝါတွင် မန္တလေးဝိသုဒ္ဓါရုံတိုက်မှာ ပြန်နေဦးမည်"ဟု ရည်ရွယ်၍ မိဘတို့ကို ပန်ကြားပြီးလျှင် ပခုက္ကူသို့ ပြန်ခဲ့သည်။

---

* "ညောင်တုန်းဆရာတော်"ဆိုသည်မှာ အဂ္ဂမဟာပဏ္ဍိတ ဆရာတော် ဦးနန္ဒဝံသကို ဆိုလိုသည်။

# စာချဘုန်းကြီးဘဝ ဖြစ်၍လာ

**ပခုက္ကူစာချ ဖြစ်၍လာ**

"ကိစ္စဆိုတာ ကြံတိုင်းလည်း မဖြစ်တတ်, မကြံသော်လည်း ဖြစ်လာတတ်သည်"ဟု ဘုရားဟောတော်မူသည့်အတိုင်းပင် အရှင်ဇနက ပခုက္ကူသို့ ပြန်ရောက်ပြီး ဆိုမြဲစာဝါတို့ကို ဆက်လက်ဆိုရာက မူလပဏ္ဏာသကုန်သည့်အခါ ညောင်တုန်းဆရာတော်ကလည်း "ဇနကတော်လောက်ပြီ"ဟုဆို၍ စာဝါကို ရပ်လိုက်ပြန်သည်၊ ထိုအချိန်မှာ ဆရာတော်ဦးပညာထံ၌ ပဋ္ဌာန်းအဋ္ဌကထာ တစ်ဝါသာ ဆိုဝါအဖြစ် ရှိတော့သည်၊ "ဆရာတော်များက ဘာပြုလို့များ ဆိုဝါတွေ ရပ်လိုက်ကြပါလိမ့်"ဟုလည်း စိတ်ထဲတွေးနေမိသည်၊ ဆိုခဲ့ပြီးသည့် အတိုင်း ရဟန်းခံကိစ္စသုံးခုလောက်မှာ ရဟန်း လောင်းဆုံးမခိုင်းပြီးလျှင် သိမ်သမုတ် ကိစ္စများ၌လည်း လက်ထပ်သင်ပေးတော်မူကြပြီးနောက် ပဋ္ဌာန်းအဋ္ဌကထာဆိုနေတုန်းမှာပင် ဆရာတော်များက အရှင်ဇနကအား "စာချ" အဖြစ် မြှောက်လိုက်ကြပါတော့သည်၊ ထို့ကြောင့် **"ပခုက္ကူစာချဘုန်းကြီး"** ဖြစ်လာတော့သည်။

**ခေါက်စားပုဂ္ဂိုလ်ဖြစ်** ပခုက္ကူ တိုက်ကြီးထဲ၌ ... အစဉ်အလာတစ်ရပ်ရှိ၏၊ စာချမြှောက်လိုက်ပြီဆိုလျှင် ဆွမ်းခံဖို့မလိုတော့ပြီ၊ တုံးခေါက်လျှင် ဆရာတော်ကြီးများ ဘုဉ်းပေးကြသည့် ဆွမ်းစားကျောင်းသို့ သွား၍ စားခွင့် ရှိပြီ၊ ဆရာတော်ကြီးများက ဤသို့ ချီးမြှောက်ထားတော်မူကြ၏၊ ထို့ကြောင့် ထိုပုဂ္ဂိုလ်များကို **"ခေါက်စား"**ဟု အများက သမုတ်ကြသည်၊ (တုံးခေါက်လျှင် သွား၍ စားခွင့်ရှိသူဟု ဆိုလိုဟန် တူ၏၊) ထို့ကြောင့် အရှင်ဇနကအား ဆရာတော် ကြီးများက သံဃာ့ပရိသတ်ရှေ့တွင် "စာချဘုန်းကြီး"အဖြစ် မြှောက်ပြီဖြစ်ကြောင်း ကြေညာပြီးနောက် "နက်ဖြန်ခါက စပြီး တုံးခေါက်လျှင် ဆွမ်းစားကျောင်းကို လာစားလှည့်, တုံးခေါက်လို့ လာစားရတဲ့အတွက် ဘဝင်မြင့် မသွားလိုက်နဲ့အုံး၊ တုံးခေါက်လို့ လာစားတာများ ခွေးတောင် လာစားတတ်သေး" ဟု မိန့်တော်မူပါသေးသတဲ့။

ဆရာတော်ကြီးများသည် အမြော်အမြင်ကြီးမားတော်မူကြပါပေ၏၊ အရှင်ဇနကကို မြှောက်သင့်၍ မြှောက်သော်လည်း မိုးမမြင် လေမမြင် ဘဝင်ကိုင်သွားမည် စိုးသောကြောင့်, အောက်ခြေလွတ်သွားမည်စိုးသောကြောင့် တစ်ဖက်မှ ပြန်၍ ထိန်းထားသည့်အနေဖြင့် "တုံးခေါက်လို့ လာစားတာများ ခွေးတောင် လာစားတတ်သေး"ဟု မိန့်တော်မူကြခြင်း ဖြစ်ပေသည်။



**အမရပူရမြို့ မဟာဂန္ဓာရုံဆရာတော်ဘုရား စာသင်-စာချဖြစ်စဉ်က သီတင်းသုံးတော်မူခဲ့သော ပခုက္ကူမဟာဝိသုတာရာမတိုက် (ယနေ့မြင်ကွင်း)**



အရှင်သုန္ဒရ (၁၂၄၁–၀၃၄၄)

## ပခုက္ကူမှ ကျေးဇူးတော်ရှင် ဆရာတော်များ



အရှင်နန္ဒဝံသ (၁၂၄၄–၁၃၁၉)

**ကျေးဇူးကို သိတတ်သူမို့**

ပခုက္ကူ ဆရာတော်ကြီးများသည် အရှင် ဇနကကို နိကာယ်ငါးရပ် ပိဋကတ်ပင်လယ်ကြီး၏ တစ်ဖက်ကမ်းရောက် ကူးမြောက်ပို့ပေးရုံသာမက အရှင်ဇနက၏ တစ်ဘဝစာအတွက် ကျင့်သုံးဖို့ရာ စိတ်နေစိတ်ထားကိုပါ သင်ပေးတော်မူကြ၏၊ ဆပ်၍ မကုန်နိုင်သော, အထုအထည်ကြီးမားသော ကျေးဇူးများပါပေ။ {**အာစရိယဂုဏော အနန္တော။**}

အရှင်သာရိပုတ္တရာသည် မန္တိုင်းဆနိုင်အောင် ကျေးဇူးများခဲ့သော သူ၏လက်ဦးဆရာ**အရှင်အဿဇိမထေရ်**ရှိရာဘက်သို့ အမြဲဦးခေါင်းထားပြီး ကျိန်းတော်မူလေ့ ရှိသကဲ့သို့ အရှင် ဇနကသည်လည်း သူ့ဘဝတွင် အလွန်ကျေးဇူးများခဲ့သော သရိုင်ရွာ ပင်းကျောင်းဆရာတော်ကြီး, မြောင်းမြဆရာတော်, စစ်ကိုင်း မဟာဂန္ဓာရုံဆရာတော်များ, ပခုက္ကူဆရာတော်များ, နောက်ဆုံး အဘယာရာမဆရာတော်ဘုရားအထိ အန္တိုင်းမသိသောဂုဏ်ပုဒ်တို့ကို ကြုံတိုင်းထုတ်ဆို၍ ချီးကျူး ဦးတင်လေ့ရှိပါသည်၊ မကြာမကြာပင် အရှင်ဇနက၏ လက်ဖျားနှစ်ဖက်အစုံတို့သည် ယှက်ရုံ ပူးကပ်၍ သူ၏ နဖူးပြင်အရပ်တွင် ကပ်ကာ ကပ်ကာ အကြိမ်ကြိမ် ဦးတင်ချာပါသည်။

**တော်သူကို ချီးမြှောက်မြဲ**

အရှင်ဇနကကို ပခုက္ကူဆရာတော်ကြီးများက စာချအဖြစ် ချီးမြှောက်ချိန်မှာ ၁၂၈၄-ခု ကဆုန်လဆန်း ၁-ရက်နေ့တွင် ဖြစ်၏၊ သိက္ခာအားဖြင့် ၃-ဝါရ, အသက်အားဖြင့် ၂၂-နှစ်နှင့်၂-လပြည့်ရုံသာ ရှိသေးသည်၊ ထိုအချိန်၌ မဟာဝိသုတာရာမတိုက်ကြီးထဲမှာ သံဃာတော် ၆၀၀-ကျော်ရှိလေ၏၊ စာချပုဂ္ဂိုလ်များမှာ ဆရာတော်ကြီးများနှင့်တကွ လက်ထောက်စာချများပါ ၁၈-ပါးလောက်ရှိသည်၊ ထိုထဲတွင် အရှင်ဇနကမှာ အငယ်ဆုံးစာချဘုန်းကြီးကလေး ဖြစ်၏၊ တစ်ပါးနှင့်တစ်ပါး ဣဿာ မစ္ဆရိယနည်းပါးကြသည့်ပြင် အားလုံးက ခင်မင်ကြလေသည်၊ အရှင်ဇနကမှာ ဘဝင်ကျလောက်အောင် သာသနာတော်ကိစ္စ၌ ခိုင်မြဲသော အခြေခံ ရသွားလေပြီ။

ထူးခြားသည်မှာ ပခုက္ကူဆရာတော်ဘုရားကြီးများသည် တော်သူကို တော်သလို ချီးမြှောက်တော်မူတတ်ကြသော အလေ့ပင်ဖြစ်၏၊ အရှင်ဇနကသည် ရွှေကျင်ဖြစ်ကြောင်း, ရွှေကျင်မှ သာမန်မဟုတ်, မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးများ, ထရံကာဆရာကြီးများနှင့်သွေးသားမကင်းကြောင်း, ထို့ပြင် စာသင်ပြီးလျှင် မြောင်းမြဆရာတော်လောင်းက ပြန်သိမ်းမည်ဖြစ်ကြောင်းတို့ကိုပါ သိတော်မူပြီး ဖြစ်ကြ၏၊

သို့ပါလျက် "ပခုက္ကူစာချ"အဖြစ် ချီးမြှောက်တော်မူခြင်းသည် ဂိုဏ်းဂဏ မရွေး, တော်လျှင်တော်သလို ချီးမြှောက်တော်မူတတ်သော အလေ့ပင်ဖြစ်တော့၏၊ သဘောထား ကြီးမားတော်မူကြခြင်းပင်တည်း။ ။

## တာဝန်ကျေပွန်စွာ ထမ်းရွက်ခဲ့

ပခုက္ကူမှာ စာချအဖြစ် ချီးမြှောက်ခံရကြောင်း ကိုမြောင်းမြဆရာတော်လောင်းဘုန်းတော်ကြီးထံ အကြောင်းကြားသောအခါ ဆရာဘုန်းတော်ကြီး လည်း အလွန်ဝမ်းမြောက်တော်မူလေသည်။

အရိပ်တကြည့်ကြည့် ရင်တမမနှင့်မပျက်စီးရ အောင် အဝေးမှတစ်နည်း၊ အနီးမှတစ်ဖုံ, မျိုးစုံ အောင် စောင့်ရှောက်ခဲ့ရသော တပည့်အတွက် ရတက်အေးရလေပြီ၊ ရှေးကဆိုလျှင် ပခုက္ကူတိုက် ကြီးထဲမှာ "မည်သည့်စာဝါကို လိုက်, မည်သည့် စာဝါကို နေဦး"ဟူ၍ အဝေးမှ စီစဉ်ညွှန်ကြားရ သလို "ယခု မလိုတော့ဘူး, တပည့်ဘာသာစီစဉ် နိုင်ပြီ"ဟု လွတ်လပ်ခွင့်ပေးတော့သည်။

အရှင်ဇနကလည်း ပခုက္ကူတိုက်ကြီးထဲမှာ စာချအဖြစ်နှင့်တူအောင် ကြိုးစား၍ တာဝန်ကျေ ပွန်စွာ ထမ်းရွက်ရတော့သည်၊...စာလိုက်သူ စာသင်သားများလည်း အားရနှစ်ခြိုက်တော်မူကြ သည် ဟူ၏၊ ပခုက္ကူစာဆိုဖြစ်ဖို့ မလွယ်ကူသလို ပခုက္ကူစာချဖြစ်ဖို့မှာ ထို့ထက်ပင် ခဲယဉ်းပြန်သေး ၏၊ တော်ရုံတန်ရုံ ချပို့တတ်ရုံဖြင့် အများက လက် မခံကြပါ၊ အများကျေနပ်မှုကို မပေးနိုင်ပါ။

ထို့ကြောင့် စာချဖြစ်လာသောအခါ စာဆို ဘဝကထက်ပင် နှစ်ဆလောက်မက ကြိုးစားခဲ့ရ ပြန်သည်ဟု မိန့်ကြားဖူးသည်။

ဤသို့ဖြင့် ပခုက္ကူမဟာဝိသုတာရာမတိုက်ကြီး ထဲ၌ ကျေးဇူးရှင်ဆရာတော်ဘုရားကြီးများ၏ ချီးမြှောက်မှုအရ စာချလာခဲ့သည်မှာ ယခုအခါ ၃-နှစ်ပင်ကြာခဲ့လေပြီ၊ ရဟန်းဝါ ၆-ဝါရလေပြီ၊ စာချရည်လည်း ဝနေလေပြီ၊ ထိုအခါတွင် အရှင် ဇနက စဉ်းစားမိသည်၊ "ငါ့မှာ မန္တလေး ပရိယတ္တိ သာသနဟိတ (သကျသီဟ)စာမေးပွဲဝင်ဖို့ ရှိပါ သေးကလား"ဟု ဖြစ်၏။

ပခုက္ကူစာချ ဖြစ်ပြီးလျှင် အရှင်ဇနကအဖို့ လုံးဝ ကျေနပ်စရာကား ဖြစ်နေပေပြီ၊ သို့သော် တစ်နိုင်ငံလုံးနှင့် ကြည့်လျှင် ကိုယ့်နည်းနှင့်ကိုယ် အထင်ကြီးကြသည်ဖြစ်၍ မန္တလေးနည်းကိုလည်း ရဖို့ လိုပေလိမ့်ဦးမည်၊ မန္တလေးနည်း၏ အဓိက သော့ချက်မှာ ပရိယတ္တိ (သကျသီဟ) စာမေးပွဲ အောင်-မအောင်ပေါ်မှာ မူတည်၏၊ ထို့ကြောင့် ယင်းစာမေးပွဲကိုပါ ဖြေဆိုဖို့ရန် စိတ်ကူးရတော့ သည်။

## "ဇာတ်ကြီးထဲ လိုက်ပြီးကာမှ အငြိမ့်လေးထဲ ဝင်ကမလို့လားဟဲ့"

### ပရိယတ္တိသကျသီဟစာမေးပွဲ ဝင်ချင်၍

သက္ကရာဇ် ၁၂၈၆-ခုနှစ်တွင် ဖြစ်၏၊ မန္တလေး သကျသီဟစာမေးပွဲကို ဝင်ခွင့်ပြုပါရန် ပခုက္ကူ ကျေးဇူးရှင်ဆရာတော်ကြီးများကို လျှောက်ထား သောအခါ "ဟယ်-ဇနကနှယ်...ဇာတ်ကြီးထဲ လိုက်ပြီးကာမှ အငြိမ့်ကလေးထဲ ဝင်ကအုံးမလို့ လားဟဲ့"မိန့်တော်မူကြပါသတတ်။

ဟုတ်ပါသည်၊ ပခုက္ကူစာချဖြစ်ပြီးမှ မန္တလေး စာမေးပွဲကို ဝင်သည်ဆိုရာမှာ တမင် အောက် ကျခံပြီး ဝင်ရခြင်းဖြစ်၏၊ ထို့ကြောင့် ဆရာတော် ကြီးများက အထက်ပါအတိုင်း မိန့်ကြားကြခြင်း ဖြစ်ပေသည်၊ သို့ရာတွင် ကျေနပ်လောက်အောင် လျှောက်ထားသောအခါ ခွင့်လွှတ်တော်မူကြရှာ ပါသည်၊ ထို့နောက် မန္တလေးသို့ ရောက်၍ လေး ငါးလလောက် အနားယူ လေ့လာပြီးလျှင်... ဝင်ရောက်ဖြေဆိုရာ **နှစ်နံပါတ်**ဖြင့် ချောမောစွာ အောင်မြင်ပါလေသည်။ စာအောင်ပွဲသဘင် ဆင်ယင် ကျင်းပအပြီး "ရှေ့လာမည့် ဝါတွင်း အဘယ်မှာ ဝါကပ်ရအံ့နည်း"ဟု စဉ်းစားနေဆဲ ညောင်တုန်းဆရာတော် မန္တလေးသို့ ကြွလာ သည်ကို သွားရောက် ကန်တော့သည့်အခါ ...

ဆရာတော်က... "ဇနကလား၊ ပခုက္ကူကို ဘယ်တော့ ပြန်မလဲ"ဟု မေးလေ၏၊ ဘာမျှ စဉ်းစားမနေဝံ့ဘဲ "ရွှေသင်္ဘောအပတ်မှာ ပြန်ပါမည်"ဟု လျှောက်မိတော့၏၊ ထိုကတိအတိုင်း ထိုဝါတွင်းမှာ ပခုက္ကူသို့ ပြန်၍ ဝါကပ်ရတော့၏။

ဝါကျွတ်၍ ဆောင်းဝင်လာချိန်မှာ ပခုက္ကူတွင် ပလိပ်ရောဂါကြီး ဖြစ်ပြန်ပါလေပြီ၊ တိုက်ကြီးထဲမှာ သံဃာ ၆၀၀-ကျော်သည် ၆၀-ပင် မကျန်တော့ပေ၊ အသီးသီး ပြန်ပြေးကြရ၏၊ ဆရာတော်များလည်း ညောင်ဦးဘက်သို့ ရွှေ့ဖို့ရန် စီမံတော်မူနေကြ၏။ ။

**မန္တလေးသို့ တစ်ပတ်ပြန်လာ**

မဟာဝိသုတာရာမတိုက်ကြီးထဲတွင် ဓမ္မမဋ္ဌကျောင်း၌ အရှင်ဇနက၏ နှစ်ဝမ်းကွဲ ဦးလေးတော်သော ဦးပဉ္စင်း **ဦးဝိလာသ** တစ်ပါးလည်း မကြာမီ စာချဖြစ်ဖို့ အလားအလာရှိနေသည်၊ သို့ရာတွင် ပလိပ်ရောဂါဘေးကြောင့် သူလည်း စစ်ကိုင်းသို့ ပြန်တော့မည်ဖြစ်၏၊ ထို့ကြောင့် ဆရာတော်ကြီးများက အရှင်ဇနကကို ခေါ်၍ "မောင်ဇနက ... မောင်ဝိလာသ ပြန်လာလို့မှ မင်းပြန်မလာရင် မင့်ဆရာတွေက စိတ်ကောင်းကြမယ် မဟုတ်ဘူး၊ မင်းလည်း ပြန်လိုက်သွား၊ တို့လည်း ညောင်ဦးကို ခေတ္တရွှေ့ကြမယ်"ဟု မိန့်တော်မူကြ ၏၊ ထိုသို့ ကျေနပ်စွာ ပြန်၍လွှတ်သဖြင့် ဦးဝိလာသနှင့်အရှင်ဇနကတို့သည် စစ်ကိုင်းသို့ ပြန်ခဲ့ကြလေသည်၊ စစ်ကိုင်းတွင် ခေတ္တ အနားယူ နေထိုင်ကြသေး၏။

**သကျသီဟစာချတန်း**ဖြေဆိုရန် နီးသောအခါ မန္တလေးသို့လာခဲ့သည်၊ သကျသီဟ မဖြေမီတွင် ပထမကျော်ကို ဝင်၍ဖြေလိုက်သေး၏၊ ထိုအပြီးတွင် သကျသီဟစာချတန်းကို ဝင်၍ဖြေရာ အဋ္ဌကထာ နှစ်ကျမ်းအောင်လေသည်၊ နောက်ရက် မကြာမီ ပထမကျော်ဂေဇက်လည်း ထွက်၍ အောင်မြင်လေသည်၊ ထိုအချိန်က ဝိသုဒ္ဓါရုံ ဆီးပင်ကျောင်း၌ စာချနေခိုက်ဖြစ်၏၊ နောက်တစ်နှစ် ကျန်နေသောကျမ်းကို ဖြေဆိုရာ **နံပါတ် ၁-က** အောင်မြင်လေတော့၏၊ သို့အတွက် **"အရှင်ဇနကာဘိဝံသ ပရိယတ္တိသာသနဟိတဓမ္မာစရိယ"**ဟူသော ဘွဲ့ထူးကို ရရှိလေသည်၊ ထိုအချိန်မှာ ရဟန်းသိက္ခာ ၈-ဝါရ, အသက် ၂၇-နှစ် ရှိလေပြီ။



**အရှင်ဇနကာဘိဝံသ သီတင်းသုံးတော်မူခဲ့သော ပခုက္ကူမဟာဝိသုတာရာမတိုက် ဓမ္မမဋ္ဌကျောင်း (ယနေ့မြင်ကွင်း)**

**မြောင်းမြဆရာတော်** စာချ ဘုန်းတော်ကြီး ဦး ဉာဏာဘိဝံသသည် မောင်ဌေးလွင်ကလေးကို ပျက်ယွင်းတိမ်းစောင်းခြင်း မရှိရအောင် ထိန်းကျောင်းစောင့်ရှောက်လာခဲ့၏၊ မောင်ဌေးလွင်ကလေးဘဝမှ သာမဏေ ရှင်ဇနကဘဝသို့ ရောက်အောင် ဆွဲခေါ်ခဲ့သည်၊ ထိုမှတစ်ဖန် ရဟန်းအရှင်ဇနကဘဝ ဖြစ်လာရသောအခါ စိတ်အေးရသောအဖြစ်သို့ ရောက်ခဲ့ရလေသည်၊ မိမိကိုယ်တော်တိုင်ကား ပလိပ်မြို့ကလေးမှ ဖွဲ့ခွာခဲ့ပြီးနောက် မအူပင်မြို့နယ်ကစစ်ချောင်း, မြင်းမူနယ်က အလ္လကပ္ပ, ထိုမှကင်း, စစ်ကိုင်းတောင်ရိုး, သထုံခရိုင် ပေါင်မြို့အနီးက ကျွဲခြံရွာ, ထို့နောက် ဟံသာဝတီခရိုင်သုံးခွမြို့အပိုင် ဥက္ကံ, ထိုမှတစ်ဖန် သီဟိုဠ်ကျွန်းတို့၌ သင့်တော်သလို သီတင်းသုံးကာ ရောက်လေရာတွင် စာပေပို့ချ ပေးခြင်း, ဝိနည်းကျင့်ဝတ်နှင့်အညီ သီတင်းသုံးခြင်းဖြင့် ပျော်မွေ့တော်မူနေခဲ့သည်။

ယခုအခါတွင်ကား မြောင်းမြမြို့က ကျောင်းဒါယကာကြီး **ဦးစု**၏ပင့်လျှောက်ချက်အရ **၁၂၈၉** ခုနှစ် ကဆုန်လပြည့်ကျော် ၁-ရက်နေ့ကစပြီး မြောင်းမြမြို့သို့ ကြွ၍ သီတင်းသုံးကာ သာသနာပြုတော်မူနေပါလေပြီ၊ ထို့ကြောင့် ထိုအချိန်မှစ၍ **"မြောင်းမြဆရာတော်"**ဟု ခေါ်တွင်လာကြတော့သည်။

**ပတ္တမြားမှန်လျှင် နွံမနစ်** ထိုအချိန်က အသက်အားဖြင့် ၂၇-နှစ်မျှသာ ရှိသေးသော အရှင်ဇနကာဘိဝံသကမူ "ငါ့ဆရာသည် ယခုအခါ အလွန်ချောင်ကျတဲ့ မြို့ကလေးမှာ သွားပြီး သာသနာပြုနေပြီတဲ့၊ ငါ့ဆရာ၏ သီလ သမာဓိ ပညာ, ဝိနည်းကျင့်ဝတ်သိက္ခာ, အစွမ်းသတ္တိတွေနှင့် စာရင် ယခုလိုချောင်ကျတဲ့ အစွန်အဖျားဖြစ်တဲ့နေရာမျိုးမှာ မနေထိုက်၊ ကျယ်ကျယ်ပြန့်ပြန့် သာသနာပြုလို့ရနိုင်တဲ့ နေရာမျိုးမှာသာ နေထိုက်တယ်"လို့ တွေးမိပါသတတ်။

သို့ရာတွင် မည်မျှလောက် ချောင်ကျ၍ မည်မျှလောက် အစွန်အဖျားဖြစ်စေကာမူ သာသနာပြုသည့်ကိစ္စမှာ ဦးစွာပထမ သီလ သမာဓိ ပညာနှင့် ပြည့်စုံပြီး လမ်းစဉ်မှန်မှန် ကြိုးစားမှု လုံ့လဝီရိယတို့သာ ပဓာန မဟုတ်ပါလော။

အရှင်သာရိပုတ္တရာ၏ အထွေးဆုံးညီကလေး **ကိုရင်ရေဝတ** နေထိုင်သော ရှားတောကြီးသည် ဆူးငြောင့်ခလုတ်တို့ဖြင့် အတိပြွမ်း၏၊ ခရီးကြမ်းလည်းသွားရသည်၊ ချောင်လည်းကျ၏၊ စိတ်ပျက်ဖွယ်ကောင်းသော နေရာဟု အချို့က နှာခေါင်းရှုံ့ကြသည်၊ ဤသည်ကို မြတ်စွာဘုရားကမူ...

**"ဂါမေ ဝါ ယဒိ ဝါ ရညေ,**
**နိန္နေ ဝါ ယဒိ ဝါ ထလေ"**

"မြို့ထဲ ရွာထဲ နေနေ, တောထဲ တောင်ထဲ နေနေ, အနိမ့်အရှိုင်း ချိုင့်ဝှမ်း ချောင်ကြားမှာ နေနေ, အမြင့်အမော် တောင်ပေါ်တောင်တန်းမှာပဲ နေနေ ရဟန္တာပုဂ္ဂိုလ်တို့ နေရာဟူသမျှ ပျော်မွေ့စရာပင် ဖြစ်သည်"ဟု မိန့်တော်မူဖူး၏။

ယခုလည်း သီလ သမာဓိ ပညာနှင့်ပြည့်စုံ၍ စွယ်စုံဂုဏ်မြောက် မုန်သောက်မာတင် ဆင်ပြောင်ကြီးအသွင်ဖြစ်သော ဆရာတော်ကြီး၏ အခြေချသော ဌာနကို "ချောင်ကျသည်"ဟု အဘယ်သို့ လျှင် အထင်သေးဝံ့အံ့နည်း၊ "ပတ္တမြားမှန်လျှင် နွံမနစ်"သော ထုံးရှိသည် မဟုတ်ပါလော။ ။



**ကျေးဇူးတော်ရှင်**
**အဘယာရာမဆရာတော်(၁၂၀၄-၁၃၀၅)**

**အဘယာရာမစာချဘုန်းကြီး** ၁၂၈၉-ခု နှစ်ဦးပိုင်းက ဖြစ်၏၊ ဝိသုဒ္ဓါရုံတိုက်ကြီးထဲမှ သုဝဏ္ဏဝတီကျောင်း စာချဆရာတော် **ဦးအဂ္ဂဓမ္မ**အား မန္တလေးအနောက်ပြင် စိန်ပန်းရပ်၌ရှိသော တည်ထောင်ဆောက်လုပ်ပြီးစ အဘယာရာမ ရွှေဂူတိုက်သစ်ကို လက်ခံရန် ဆရာတော်ကြီးများက စီမံတိုက်တွန်းတော်မူနေကြ၏၊ ထို့ပြင် တိုက်ထဲမှာ မိမိနှစ်သက်ရာ စာချဘုန်းကြီးများကိုလည်း အကူအညီ ခေါ်ယူသွားနိုင်ကြောင်း ခွင့်ပြုတော်မူကြသည်၊ ထိုအစီအမံအရ ထိုနှစ်ဝါတွင်းအမီရွှေ့ပြောင်းကြရာတွင် အဘယာရာမဆရာတော်လောင်းက အရှင်ဇနကာဘိဝံသကိုလည်း ဥပါစရိယ ဒုတိယဆရာတော်ကလေး အဖြစ်ရည်မှန်း၍ လိုက်ခဲ့ဖို့ရန်ခေါ်တော်မူ၏၊ အကြောင်းကြောင်းကို မြော်ခေါ်တွေးတော၍ အရှင်ဇနကာဘိဝံသလည်း လိုက်ပါလာခဲ့လေသည်။

ထိုစဉ်က ဝိသုဒ္ဓါရုံမှနေ၍ လိုက်ပါလာခဲ့ကြသော စာချဘုန်းတော်ကြီးတို့မှာ ပထမကျော်, သက္ကျသီဟဓမ္မာစရိယ,ဘာသန္တရဝိဒူ,ဗဟုသုတရေ, ပရိယတ္တိဆေက, တိက္ခဝေဝဇ္ဇိရညာဏ, ဝိစိတြဘာဏီ ဆိုင်ရာဂုဏ်ထူးရှိကြသော...

၁။ အရှင်ဇနကာဘိဝံသ၊
၂။ အရှင်မေဃိယာဘိဝံသ (နောင်အခါ ဝိသုဒ္ဓါရုံ သုဝဏ္ဏဝတီဆရာတော်)၊
၃။ အရှင်စန္ဒိမာသိရီဘိဝံသ (နောင်အခါ မလှိုင်ဆရာတော်)၊
၄။ အရှင်ပဏ္ဍိတ (နောင်အခါ စစ်ကိုင်းတောင် အနီးစခန်းဆရာတော်)၊
၅။ အရှင်ဝိသုဒ္ဓါဘိဝံသ (နောင်အခါ ဝိဇ္ဇာလင်္ကာရဆရာတော်)၊
၆။ အရှင်တေဇဝန္တာဘိဝံသ (နောင်အခါ လူဝတ်လဲ၍ ရန်ကုန်တက္ကသိုလ်ပါဠိနည်းပြဆရာဖြစ်)၊
၇။ အရှင်ဝါသေဋ္ဌာဘိဝံသ(နောင်အခါပရိတ်ကြီးနိဿယသစ်ကျမ်းပြု သပြေကန်ဆရာတော်)၊
၈။ အရှင်နရိန္ဒ (နောင်အခါ အဘယာရုံ စာချ, မောဂ္ဂလာနာဒိနိဿယပေါပထမ္ဘက)တို့ ဖြစ်ကြသည်။

ထို့နေ့ကား ၁၂၈၉-ခု ဝါဆိုလဆန်း ၁၃-ရက်နေ့ ဖြစ်၏၊ ရွှေကျင် တတိယသာသနာပိုင် ဒီပဲယင်းဆရာတော်ဘုရားကြီးကိုယ်တော်တိုင် မဟာဝိသုဒ္ဓါရုံတိုက်ကြီးမှ သံဃာများစွာခြံရံ၍ လိုက်ပို့တော်မူခဲ့သည်။

အဘယာရာမရွှေဂူတိုက်သစ်သို့ ရောက်သောအခါ အရှင်ဇနကာဘိဝံသလည်း မိမိတာဝန်ကျရာ စာဝါများကို ပို့ချပေးရ၏၊ အတော်ကြာသောအခါ အဘယာရာမဆရာတော်က သဒ္ဒါတဆိုင်ရာများကို ပို့ချပေးသဖြင့် မုဂ္ဂဗောဓကျမ်းနှင့် စာဏက္ကနီတိကျမ်းတို့ကို လေ့လာရသည်၊ ထို့ပြင် အင်္ဂလိပ်စာတတ်သော စာချဘုန်းကြီးတစ်ပါးထံမှ အင်္ဂလိပ်စာကိုလည်း အနည်းငယ် လေ့လာခွင့်ရ၏။

ထို့ကြောင့် အဘယာရာမတိုက်သို့ ဥပါစရိယ ဒုတိယစာချဆရာတော်လေးအဖြစ်ဖြင့် လိုက်ခဲ့ရခြင်းသည် အကျိုးကျေးဇူးများပါ၏၊ အရှင်ဇနကာဘိဝံသ၏ ဘဝကို စိစစ်ကြည့်လျှင် ဆရာသမားနှင့် ပတ်သက်၍ ထိတ်ထိတ်ကြ ထိပ်တန်းဆရာတော်များနှင့်ချည်း တွေ့ရသည်၊ ထူးသောကံပါပေ။ ။



**စိန်ပန်းမှ အဘယာရာမတိုက်သစ်သို့ ပြောင်းတော်မမူကြမီ**
**(ရှေ့တန်း-ဝဲမှယာ) ၁-ဘွဲ့မသိ၊ ၂-ဓမ္မူမော်ဆရာတော်၊ ၃-စည်ရှင်ဆရာတော်၊**
**၄-စီးပင်ကျောင်းဆရာတော်၊ ၅-အဘယာရာမဆရာတော်၊ ၆-စံကင်းဆရာတော်၊ ၇-ဘွဲ့မသိ၊ ၈-အရှင်ဇနကာဘိဝံသ**

**အရှင်စဏ္ဍာဝဇ္ဇီပမာ မထေရ်ကြီးများ**

အရှင် ဇနကာဘိဝံသ မှာ သာသနာပြုဖို့ ကံဇာတာပါခဲ့သည်ကား အမှန်ပင်ဖြစ်၏၊ သာသနာပြုနိုင်လောက်အောင် အရည်အသွေးများ ဖြည့်ပေးကြသောဆရာတော်တွေ သူ့မှာအသင့်ဖြစ်၍နေကြသည်၊ သူငယ်ကလေးဘဝမှာ သရိုင်ပင်းကျောင်းဆရာတော်ကြီးများက အခြေရအောင် မှုချပေးသည်၊ ထို့နောက် ဦးပဥ္စင်းဦးရာဇဉက ဆရာသမားကောင်းတွေနှင့် တွေ့ရအောင် ဖန်တီးပေးသည်၊ နောက် မြောင်းမြဆရာတော်လောင်းနှင့် တွေ့ရသည်၊ ထို့နောက် စစ်ကိုင်း မဟာဂန္ဓာရုံဆရာတော်များ, ထို့ပြင် ပခုက္ကူဆရာတော်များ, နောက်ဆုံး အဘယာရာမဆရာတော်ဘုရားအထိ ထိတ်ထိတ်ကြဲ ဆရာသမားများနှင့်ချည်း တွေ့ရသည်။

ထို့ကြောင့် မြောင်းမြဆရာတော်စသော နောက်နောက် ကျေးဇူးရှင်များသည် တတိယသင်္ဂါယနာ ခေါင်းဆောင်လောင်းကလေး အရှင်မဟာမောဂ္ဂလိပုတ္တတိဿအား သာသနာတွင် အရာဝင်အောင် ပညာသင်ပေးသော အရှင်စဏ္ဍဝဇ္ဇီပမာ မထေရ်ကြီးများ ဖြစ်ကြပါတော့သည်။

အရှင်ဇနကာဘိဝံသဆရာတော်က မကြာခဏ ပြောလေ့ရှိသည်၊ "ငါနဲ့တန်းတူ, ငါ့ထက်စာတတ်တဲ့ ပုဂ္ဂိုလ်တွေ အများကြီးရှိကြပါတယ်၊ ဒါပေမယ့် ငါ့လောက် ဆရာကံ မကောင်းကြပါဘူး"ဟူ၍ ဖြစ်၏။

## ရွှေကျင်ဂိုဏ်းလုံးဆိုင်ရာ ပရိယတ္တိသင်ကြားရေး တစ်ပြေးတည်းဖြစ်ရန်

**ပရိယတ္တိဝန်ဆောင် အဖွဲ့ငယ်ဖွဲ့**

ပခုက္ကူတွင်စာသင်ပြီးနောက် မန္တလေးမြို့ ဝိသုဒ္ဓါရုံသို့ ပြန်ရောက်သောအခါ အရှင်ဇနကာဘိဝံသမှာ တက်တက်ကြွကြွဖြင့် စာပေကျမ်းဂန်များချပို့ခြင်း, တိုက်တွင်းရှိ စာချဘုန်းကြီးများ တစ်နေရာတည်း၌ တစည်းတရုံးတည်း ဆွမ်းဘုဉ်းပေးရေးအတွက် ကြိုးစားခြင်းတို့အတွက် လှုံ့ဆော်ခဲ့သည်၊ "ပခုက္ကူတိုက်ကြီးထဲ၌ စာချဘုန်းကြီးများ တစည်းတရုံးတည်း ဆွမ်းစားကြသဖြင့် နေ့စဉ် တွေ့မြင်နေရသောကြောင့် ရင်းနှီး သွေးစည်းကြကြောင်းကို ဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးအား လျှောက်ထားရာ အလွန်



**ဝိသုဒ္ဓါရုံ မိုးပင်ကျောင်း စာချတုန်းကြီး အရှင်ဇနက**

သဘောကျကာ ထိုသို့ဖြစ်အောင် ကြိုးစားဖို့လည်း အားပေးတော်မူသည်။

ထို့နောက်တစ်ဖန်"ရွှေကျင်တစ်ဂိုဏ်းလုံး ပရိယတ္တိ ပညာသင်ကြားရေး တစ်ပြေးတည်းဖြစ်ရန် ကြံစည်ခဲ့ ၏၊ ထိုအကြံအစည်ကို နီးစပ်ရာတို့နှင့် တိုင်ပင်ကြည့် ရာ"သုံးနှစ်တစ်ကြိမ်စည်းဝေးသော ရွှေကျင်ဂိုဏ်းလုံးဆိုင်ရာ အစည်းအဝေးကြီး၌ တင်ပြပါ"ဟု အကြံပေးကြ၏၊ သို့နှင့် ၁၂၉၄-ခုနှစ် လေးကြိမ်မြောက် အစည်းအဝေးကြီး၌ တင်ပြလိုက်တော့သည်၊ ထိုအခါ အစည်းအဝေးကြီးမှ "ပရိယတ္တိဝန်ဆောင်အဖွဲ့ကို ဖွဲ့စည်းပါ၊ စည်းမျဉ်းဥပဒေသနှင့် သင်ရိုးညွှန်းတမ်းကိုလည်း ညွှန်ပြပါ"ဟု ဆုံးဖြတ်ချက်ကျလာသည်၊ ထို့ကြောင့် လေးစားအပ်သော ဆရာတော်ဘုရားကြီးတို့ကို အကြီးအမှူး ဦးစီးဥက္ကဋ္ဌ တင်မြှောက်ကြ၍ "ပရိယတ္တိဝန်ဆောင်အဖွဲ့"ကို ဖွဲ့စည်းကာ စည်းမျဉ်းဥပဒေသနှင့် သင်ရိုးညွှန်းတမ်းတို့ကို ရှင်လန်းအားတက်စွာ အရှင်ဇနကာဘိဝံသက ရေးဆွဲခဲ့ပါ၏။

ယင်းတို့ကို ယခုအခါ အသုံးပြုရန် မလိုအပ်တော့သဖြင့် ချန်ထားခဲ့ပါသည်၊ ထိုစာမူမှ အချီနိဒါန်းနှင့် နိဂုံးကိုသာယူ၍ ဖော်ပြပေတော့အံ့။

**အချီနိဒါန်း**

**အနုပုဗ္ဗံ စရံ စာရံ၊**
**နတ္ထာ-နုပုဗ္ဗဒေသကံ၊**
**သပ္ပလံ သောတုသိက္ခာယ၊**
**သေဋ္ဌေသံ အာနုပုဗ္ဗိကံ။**

အနုပုဗ္ဗံ စရံ-လက်ဦးသီလ, နောက်မှသမာ-ဓိပညာကို, စဉ်ကာဆင့်၍, ကျင့်တော်မူတတ်, သံဃာတော်မြတ်ကိုလည်းကောင်း၊ အနုပုဗ္ဗံစာရံ-စဉ်တိုင်းကျင့်က, အသင့်ရမည့်, သီလ သမာ-ဓိပညာဟု, သိက္ခာသုံးရပ်, တရားတော်မြတ်ကိုလည်းကောင်း၊ အနုပုဗ္ဗဒေသကံ-ကျင့်စဉ်ဓမ္မ, ဟောညွှန်ပြသည့်, ဒေသကထွတ်တင်, ဘုရားရှင်ကိုယ်တော်မြတ်ကိုလည်းကောင်း၊ နတ္ထာ-သဂါရဝ, ပဏာသ၍၊ သပ္ပလံ-လောကုတ် လောကီ, နှစ်လီဂုဏ်နှင့်, အစုံတင့်၍, ဆင့်ဆင့်တိုးပွား, အကျိုးများလေအောင်၊ သောတုသိက္ခာယ-နာယူ လေ့ကျက်, ဆောင်ရွက်ကြလို့, စာသင်ပျိုတို့, အလိုမကင်း, ပိုမသွင်းဘဲ, လိုရင်းတွင်မျှ, သင်ပြဖို့အကျိုးငှာ၊ အာနုပုဗ္ဗိကံ-ကျမ်းဆင့်ဆင့်နှိုင်း, တန်းဖြင့်ပိုင်း၍, ဂိုဏ်း၏လက်သုံး, စာသင်ထုံးကို၊ သေဋ္ဌေသံ-အပြစ်လည်းကင်း, ခေတ်နည်းသွင်း၍, ရှင်းရှင်းတီထွင်, စီစဉ်ပါအံ့ သတည်း။...

ထို့နောက် ပရိယတ္တိပညာသင်ကြားရေးစည်းမျဉ်းဥပဒေသကို စနစ်တကျ ရေးဆွဲပြထား၏၊ ဤအစီအစဉ်အတိုင်း အဆင့်ဆင့်ပေါက်မြောက်အောင် သင်ကြားပေးပါဟု ညွှန်ကြားထားသည်၊ ထိုသို့မဟုတ်ဘဲ...

၁။ ကျမ်းရင်းကို ပေါက်မြောက်အောင်မသင်, မှတ်စုမှတ်ရာတို့ဖြင့် အညွှန့်ခူးကာ ပညာရှိဟန်ဆောင်ခြင်း၊
၂။ ငွေဖြင့်ဝယ်အပ်သော ခေတ္တအပျော် မေထုန်မှု၊
၃။ သူများပေးမှ ကျွေးမှ စားရသောသူများနှင့်စပ်သော အစာ။

ဤ ၃-ဖြာတို့သည် အဆောင်အယောင်မျှသာ ဖြစ်ကြ၏၊ ရှက်ဖွယ်သာတကားဟုဆိုကာ အောက်ပါအတိုင်း ဂါထာဖြင့် သတိပေးထားသည်။

**ပလ္လဝဂ္ဂါဟိ ပဏ္ဍိစ္စံ, ကယက္ကီတဥ္စ မေထုနံ၊**
**ဘောဇနဥ္စ ပရာဓိနံ, တိသော ဒိနံ ဝိဋ္ဋမ္ဘနာ။**

ပလ္လဝဂ္ဂါဟိ-မှတ်စုမှတ်ရာ, ဖွေရှာဆည်းပူး, အညွန့်ကိုသာ ခူးလေ့ရှိသော၊ ပဏ္ဍိစ္စံ-ကျမ်းဂန်စဉ်လာ, မသင်ပါဘဲ, ပညာဉာဏ်ခိုး, ပဏ္ဍိတ်မျိုးသည်လည်းကောင်း၊ ကယက္ကီတံ-နှစ်ဦးမေတ္တာ, မပြိုင်ပါဘဲ, ဆိုင်ရာဆက်သွယ်, ဥစ္စာဖြင့် ဝယ်အပ်သော၊ မေထုနံ စ-သေးမွှားသာမန်, တိရစ္ဆာန်တို့ ခံစံကြရိုး, မေထုန်မျိုးသည်လည်းကောင်း၊ ပရာဓိနံ-သူများပေးကြ, ကျွေးသမျှဖြင့်, အေးရမျှားလင့်, တစ်ပါးသူနှင့် စပ်သော၊ ဘောဇနံ စ-စားသောက်ဖွယ်ရိုး, ဘောဇဉ်မျိုးသည်လည်းကောင်း၊ တိသော-သရုပ်အရ, ထုတ်ပြခဲ့ပြီ, ဤသုံးစားတို့သည်၊ ဒိနံ-လောကစဉ်လာ, ပညာ တောက်ကြွား, ယောက်ျား ဟူသမျှတို့၏၊ ဝိဋ္ဋမ္ဘနာ-ယောက်ျားမည်မျှ, မပီသသဖြင့်, ထွီစရာအကြောင်း, မကောင်းဆက်သွယ်, ရှက်ဖွယ် ရှက်ဖွယ်တို့ချည်းတည်း။ ။

**နိဂုံးအုပ်သောအခါ** နိဂုံးပိုင်းတွင်လည်း ... "သာသနာတော်ကြီးဟာ နိမ့်တုံ မြင့်တုံ ခေါက်ရှာငှက် ပျံသွားပုံကဲ့သို့ ဖြစ်ခဲ့ရကြောင်း, ထိုသာသနာတော်ကြီးကို ချီးမြှောက်နိုင်ဖို့ရာ ယခုအခါ ပညာသင်ကြားရေး စည်းမျဉ်း ဥပဒေသကို ရေးဆွဲပြီးပါကြောင်း, ပို့ချသူလည်း လာဘ်ရပါစေ-သင်ယူသူလည်း အောင်ပန်းဆွတ်ခူးနိုင်ပါစေဟူသော ရည်ရွယ်ချက်ထားပါကြောင်းကို အောက်ပါ ဂါထာဖြင့် နိဂုံးချုပ်၍ထားသည်ကို တွေ့ရပါသည်။

## နိဂုံးကမ္ပတ်

၁။ ပက္ခိနံ ဩယမာနံဝ,
ဥန္နတောနတအာဂတံ၊
သာသနံ ပဂ္ဂဏှတ္ထာယ,
သာစူဟိ သမမန္တိယ။

၂။ သောပဒေသော ကတော ဒါနိ,
ပါဠိယဋ္ဌာပနေ နယော၊

**ဝါစကော လဘတံ လာဘံ,**
**သာဝကော ဇယတံ ဇယံ။**

ပက္ခိနံ-အတောင်ပံအား, ဈာန်ကစားသို့, ပျံသွားချက်ကောင်း, ငှက်အပေါင်းတို့၏၊ ဩယမာနံဝ-နိမ့်တုံမြင့်တုံ, ပျံသွားပုံကဲ့သို့၊ ဥန္နတောနတအာဂတံ-ပြုပြင်သူများ, ရှိမဲ့အားကြောင့်, ထက်ဖျားတိုင်တင့်, မြင့်တုံနိမ့်တုံ, အဖုံဖုံ အဆက်ဆက်, ဖြစ်ပျက်လာခဲ့ရသော၊ သာသနံ-ယခုလက်ထက်, အောက်တန်းသက်လျက်, ခက်ဖို့နှင့်နီး, သာသနာတော်ကြီးကို၊ ပဂ္ဂဏှတ္ထာယ-စွမ်းအားရှိသလောက်, အားကုန်မြှောက်သဖြင့်, ထောက်ပင့်ဖို့ အကျိုးငှာ၊ သာစူဟိ-သာသနာ့ဝန်, အားသွန်ကြိုးပမ်း, ထမ်းကြတော့မည်, ရည်ရွယ်ကြတောင်း, သူတော်ကောင်းတို့နှင့်၊ သမမန္တိယ-ရက်လရှည်ကြာ,ညီတညာဖြင့်,ကြည်စွာသဘော,စောကြောစိုင်ပြင်, တိုင်ပင်ဆွေးနွေးကြပြီး၍၊...

သောပဒေသော (သ+ဥပဒေသော)-တစ်စဉ်တစ်တန်း, မပင်ပန်းဖို့, သင်ခန်းညွှန်ပြ, စည်းမျဉ်း ဥပဒေသနှင့် တကွဖြစ်သော၊ ပါဠိယဋ္ဌာပနေ-ပါဠိတော်မြတ်, ပိဋကတ်ကို, ကြပ်မတ်သင်ပေး, ပို့ချရေး၌၊ နယော-ဂိုဏ်း၏လက်သုံး, စာသင်ထုံးကို၊ ဒါနိ-ဆ သတ် စော ဒွိ, ရောက်ရှိလေရာ, သာသနာသက္ကရာဇ်, ယခုနှစ်၌၊ ကတော-မရိုးမဆန်း, တစ်မျိုးလမ်းဖြင့်, ကြိုးပမ်းတီထွင်, စီရင်အပ်ပေပြီ၊...

ဝါစကော - စာပေ ပို့ချ, သာသနာ့တာဝန်, အားသွန်ရှာတောင်း, ဆရာအပေါင်းသည်၊ လာဘံ-စိတ်ချမ်းသာရေး, ကျန်းမာရေးမှ, စ၍ဖွယ်ဖွယ်, နွယ်သာကီဇာတ်, ပါရမီလာဘ်ကို၊ လဘတံ-သာသနာပြု, ဒါယကာစုကြောင့်, အာယုတာရှည်, ရနိုင်ပါစေသတည်း၊...

သာဝကော-နောင်ရေး နောင်တာ, သာသနာဝယ်, ပမာဗိုလ်ချုပ်, ဆရာလုပ်မည့်, အားထုတ်ဘိတောင်း, တပည့်အပေါင်းသည်လည်း၊ ဇယံ-အောင်ခြင်းမင်္ဂလာ, အဖြာဖြာကို၊ ဇယတံ-မကိုင်နှိုရောင်လျှံ, ဦးသျှောင်ပျံဝယ်, အောင်လံ စွင့်စွင့်, လွှင့်ကာလွှင့်ကာ, အောင်မြင်နိုင်ပါစေသတည်း။ ။

# စတုတ္ထဆယ်စုနှစ်

၁၂၉၁–၁၃၀၀



ဆရာတော်သည် ဤပုံပါကျမ်းစာများကဲ့သို့ အဖိုးမဖြတ်နိုင်သော ကျမ်းပေါင်းများစွာကို ရေးသားပြုစုတော်မူခဲ့ပါသည်။

# ကျမ်းပြုဆရာတော်လေးဘဝ

**ကျမ်းစာတစ်စောင် စတင်ရေးသား**

အဘယာရာမ ရွှေဂူတိုက်၌ စာပေပို့ချလာခဲ့သည်မှာ ယခုအခါ နှစ်နှစ်နီးပါးခန့် ရှိလေပြီ၊ သက္ကရာဇ် ၁၂၉၀-ပြည့် ရဟန်းသိက္ခာ ၁၀-ဝါ, အသက်အားဖြင့် ၂၉-နှစ် ရှိလာလေပြီ၊ ဤအချိန်အထိ ကျန်းမာရေးမကောင်းသေး၊ ပိန်နေရုံတင်မက အသားအရေ ခြောက်ကပ်ကပ် ဖြစ်နေ၏၊ ထုံကျင်ကျင်ရောဂါလည်းရှိသေးသည်၊ ထို့ကြောင့် အများကပင် "သိပ်ပြီး အသက်ရှည်မှာမဟုတ်"ဟုထင်ကြ၏၊ အရှင်ဇနကာဘိဝံသကိုယ်တိုင်ကလည်း ဤသို့ပင် ထင်လေသည်။

ထို့ကြောင့် မိမိ စဉ်းစားထားသမျှ အကြံဉာဏ်ကလေးများ ကျန်တန်သမျှ ကျန်ရစ်အောင်ဟု သဘောထားပြီးလျှင် "သဏ္ဌိဟ်အဖွင့်ကျမ်း"ကို စတင်ရေးသားတော့၏၊ စတင်ရေးသားသောနေ့မှာ ၁၂၉၀ ပြည့် တပို့တွဲ လကွယ်နေ့ (မွေးနေ့) ဖြစ်သည်။

အရှင်ဇနကာဘိဝံသသည် အတော်များများ အရာတို့၌ အများ၏အယူအဆနှင့် မတူမျှတတ်ချေ၊ ရှေးဦးစဉ်လာ ဖြစ်ပေါ်လာခဲ့သော အရာတိုင်းကိုလည်း မျက်စိမှိတ်ပြီး လက်ခံတတ်သည် မဟုတ်ချေ၊ သဘာဝ ကျ-မကျ, ယုတ္တိ ရှိ-မရှိ, စိစစ်ပြီးမှ လက်ခံလေ့ရှိသည်၊ နိကာယ်ငါးရပ် ပိဋကတ်ပင်လယ်ကြီးကိုလည်း ပခုက္ကူဆရာတော်ကြီးများက တစ်ဖက်ကမ်းရောက်အောင် ကူးခတ် ပို့ဆောင်ထားခြင်းခံရသူ ဖြစ်၍ ပိဋကဉာဏ်ကလည်း သူမတူအောင် ရင့်သန်နေတော့သည်၊ ထို့ကြောင့်ပင် အများနှင့်မတူသော အယူအဆများ ကိန်းအောင်းနေရခြင်း ဖြစ်လေသည်၊ အသက် ရှည်မည် မထင်သောအခါ သူကြံစည်ယူဆထားသော အချက်အလက်ကလေးများ ထင်၍ ကျန်ရစ်ပြီး နောက်ပုဂ္ဂိုလ်များ အလွယ်တကူ သုံးစွဲနိုင်အောင် ကျမ်းစာရေးသားခြင်း ဖြစ်လေသည်။ ။

**ဘာသာဋီကာ အမည်သာပေ့**

မူလပထမ ကျမ်းစာရေးစဉ်ကမူ သဏ္ဌိဟ်နှင့်ပတ်သက်၍ အကျယ်အဓိပ္ပာယ်ကို အသေးစိတ် ဖွင့်ဆိုထားသောကျမ်း ဖြစ်သည်၊ ထို့ကြောင့်ပင် ထိုကျမ်းစတင်ရေးသားစဉ်တွင် မြောင်းမြဆရာတော်က "ဘာစာတွေ ရေးနေသလဲ"ဟုမေးသောအခါ အရှင်ဇနကာဘိဝံသက "သဏ္ဌိဟ်အဖွင့်ကျမ်း ရေးနေပါတယ်ဘုရား"ဟု လျှောက်ထားခဲ့ခြင်း ဖြစ်ပေသည်။

နောက်မှ အဘယာရာမ ဆရာတော်ရေးမောဂ္ဂလ္လာန်နိဿယတွင်**"ဘာသာဋီကာ"**ဟူသော စကားလုံးပါလာသည်ကို အလွန်သဘောကျမိသည် ဟူ၏။

မိမိ ဖွင့်ဆိုရေးသားရာ၌ အသုံးပြုနေသော အက္ခရာမှာ မြန်မာအက္ခရာ မြန်မာဘာသာ, အမိ၏စကား အမိ၏ဘာသာဖြင့် ဖွင့်ဆိုနေသည်ဖြစ်ရကား **"ဘာသာ"**ဟူသောစကားလုံးကို ယူလိုက်သည်၊ ထို့ပြင် အဓိပ္ပာယ်ဖွင့်ဆိုသောကျမ်းဖြစ်၍ **"ဋီကာ"**ဟူသော စကားလုံးပါ ယူလိုက်၏၊ နှစ်ရပ်ပေါင်းသောအခါ **"ဘာသာဋီကာ"** ဖြစ်လာလေသည်၊ ထို့နောက်တွင်ကား ကျမ်းစာအုပ်တိုင်း၏ နောက်တွင် ယင်းစကားလုံး ယှဉ်ပြီးလျှင် **"သဏ္ဌိဟ်ဘာသာဋီကာ, ပါတိမောက်ဘာသာဋီကာ, ကစ္စည်းဘာသာဋီကာ, ရူပသိဒ္ဓိဘာသာဋီကာ, အလင်္ကာဘာသာဋီကာ"** စသည်ဖြင့် တွဲဖက်လာခြင်း ဖြစ်ပေသည်။

**ရတနာ့ဂုဏ်ရည် ဦးစွာထွက်ပေါ်**

သဂြိုဟ်ဘာသာဋီကာ စာအုပ်ကြီးမှာ များပြားကျယ်ဝန်းသည်က တစ်ကြောင်း, အဓိပ္ပာယ်လေးနက်သည်က တစ်ကြောင်း, ခိုင်ခံ့သောကျမ်းစာကြီး ဖြစ်စေလိုသည်က တစ်ကြောင်းတို့ကြောင့် ရုတ်တရက် မထွက်နိုင်ဘဲ ရှိနေသည်၊ ဦးစွာရေးရသော ကျမ်းဖြစ်၍ အထပ်ထပ်အကြိမ်ကြိမ်စိစစ်ပြီး အချော ကိုင်နေရခြင်း ဖြစ်ပေသည်၊ ထိုအခိုက်တွင် ဖခင်ဒါယကာကြီးနှင့်အဘယာရာမကျောင်းဒါယကာကြီးတို့က "ရတနာသုံးပါးနှင့်စပ်သော အကြောင်းအရာများကို ရေးသားပေးပါရန်"တောင်းပန်လျှောက်ထားလာလေသည်၊ သို့အတွက် "ရတနာသုံးပါးနှင့်စပ်သော စာအုပ်တစ်အုပ် ခပ်ဖွဖွယ်ကို ရေးသားပြီး ဦးစွာထုတ်ဝေရလျှင် ရတနာသုံးပါးကို ဦးထိပ်တင်ရာလည်း ရောက်သည်"ဟု သဘောပေါက်လာ၏၊ ထို့ကြောင့် သဂြိုဟ်ဘာသာဋီကာကျမ်းကြီးကို ခေတ္တရပ်နားထားပြီး **"ရတနာ့ဂုဏ်ရည်"**စာအုပ်ငယ်ကို ရေး၍ အဦးဆုံးထုတ်ဝေလိုက်ခြင်း ဖြစ်ပေသည်။

ရတနာ့ဂုဏ်ရည်စာအုပ် ထွက်လာခဲ့သောအချိန်ကား ၁၂၉၃-ခု တပို့တွဲလဖြစ်၏၊ အဦးဆုံးထွက်လာသော ရတနာ့ဂုဏ်ရည် ကျမ်းစာကလေးသည် ပြောင်ပြောင်မြောက်မြောက် တောက်တောက်ပပ ရှိလှသဖြင့် အများကပင် လက်ခံကြ၏၊ နောက်တွင် အစိုးရက ကျောင်းသုံးအဖြစ်ပင် ပြဋ္ဌာန်းလေတော့သည်။

ရတနာ့ဂုဏ်ရည်ထုတ်ဝေပြီးနောက် ရေးထားပြီးသော သဂြိုဟ်ဘာသာဋီကာမူကြမ်းများကို ပြန်၍ စိစစ်ရ၏၊ စာအုပ်ကြီးမှာကြီးလွန်းနေ၏၊ အခြေခံပိုင်း, အလယ်ပိုင်း, အထက်ပိုင်းတို့အတွက်ပါ စုပြုံပြွတ်သိပ် ခဲကြပ်နေအောင် ထည့်သွင်းရေးသားထားမိ၏၊ ခုတိုင်းဆိုလျှင် ပထမအုပ်, ဒုတိယအုပ် နှစ်အုပ်ခွဲ၍ ရိုက်မှ သင့်တော်မည့် အခြေအနေ ရှိလေသည်၊ တစ်အုပ်တည်းဖြင့်လည်း အပြီးဖြစ်စေချင်သည်။

ထို့ကြောင့် ဤသို့ စီမံလိုက်လေသည်၊ လွယ်သော ပါဠိ အနက်အဓိပ္ပာယ်တို့ကို သီးသန့်ခွဲထုတ်၍ "အခြေပြုသဂြိုဟ်"ဟု တစ်အုပ်သီးသန့်လုပ်လိုက်၏။ ဝီထိပိုင်းဆိုင်ရာတို့ကို **"ဝီထိနှင့်သုံးချက်စုဘာသာဋီကာ"**ဟု စာအုပ်တစ်အုပ် သတ်သတ်ခွဲခြားလိုက်၏၊ ပြီးမှ ကျန်သော လေးနက်သည့် အဓိပ္ပာယ်တို့ကို တစ်အုပ်သတ်သတ် ပြုလုပ်၍ "သဂြိုဟ်ဘာသာဋီကာ"ဟု သမုတ်လိုက်တော့သည်။

**အခြေပြုသဂြိုဟ် အဘိဓမ္မာအခြေခံ**

အခြေပြုသဂြိုဟ်ကို ဒုတိယ ခြေလှမ်း အဖြစ် ထုတ်ဝေကြည့်၏၊ မကြာမီ ကုန်သွားလေသည်၊ နောက်ထပ် ရိုက်ရပြန်၏၊ သဂြိုဟ်ဘာသာဋီကာကိုကား မထုတ်ဝေသေး၊ ထပ်မံစိစစ် အချော ကိုင်နေပြန်သေးသည်၊ ထိုအခိုက်တွင် တစ်ဖက်မှလည်း သဒ္ဒါခြေခံအနေဖြင့် သုတ်စဉ် သုတ်နက် ရုပ်တွက်လွယ်လွယ်မျှကို စာတစ်အုပ်ပြု၍ "အခြေပြုသဒ္ဒါ"ဟု စီစဉ်နေ၏၊ မကြာမီ ထုတ်ဝေကြည့်သော အခါ ထိုစာအုပ်ကိုလည်း သောင်းသောင်းဖြဖြ လက်ခံကြပြန်သည်၊ ဤသို့လျှင် အခြေပြုသဂြိုဟ် နှစ်ကြိမ်, အခြေပြုသဒ္ဒါတစ်ကြိမ် ထုတ်ဝေပြီးနောက် ရေးစမှ ပြီးချိန်အထိ ၈-နှစ်အကြာတွင် "သဂြိုဟ်ဘာသာဋီကာ" ကျမ်းကြီးကို ထုတ်ဝေလေတော့သည်။

သဂြိုဟ်ဘာသာဋီကာ စာအုပ်ကြီးကား အရှင်ဇနကာဘိဝံသ၏ အတွေးအခေါ် အယူအဆ အနန္တအလျား အထုအထည် ပမာဏကို နှိုင်းဆတိုင်းတာနိုင်ဖို့ရန် အမာခံ တင်ပြလိုက်သော ကျမ်းစာအုပ်ကြီးပင် ဖြစ်တော့သည်။

အဘိဓမ္မာနှင့် ပတ်သက်၍ အဋ္ဌကထာတို့က ဘယ်လို, ဋီကာအဆိုက ဘယ်သို့, မိမိဆရာတို့က ဘယ်နည်း, မိမိကြံစည်ပြီးက ဘယ်ပုံဟု ဘက်စုံအောင် ဖော်ပြ, သဘာဝတွေကို ဈေးခင်းပြထားသော ကျမ်းကြီးပင် ဖြစ်၏။

ညောင်တုန်းမြို့ ရွှေဟင်္သာတောရဆရာတော်ဘုရားကြီးကဆိုလျှင် "အင်း...ကျမ်းစာအုပ်ကြီးက လေးနက်ကြီးမား ခံ့ညားသလောက် ကျမ်းပြုပုဂ္ဂိုလ်က ငယ်နေတယ်"ဟူ၍ပင် ဂုဏ်တင် မိန့်တော်မူသတတ်။

ဆိုင်ရာပုဂ္ဂိုလ်တို့က ကျောက်စာရုံးသို့ တင်ပြသောအခါ "အဂ္ဂမဟာပဏ္ဍိတဘွဲ့ ပေးထိုက်လောက်အောင် လေးနက်ထိုက်တန်ပါပေတယ်၊ သို့ရာတွင် ကျမ်းပြုပုဂ္ဂိုလ်က ငယ်နေသေးလို့ သည်းခံစောင့်ဆိုင်းပါဦး" ဟုပင် ကတိပေးသတတ်။

**သင်္ဂြိုဟ်ဘာသာဋီကာ ထွက်ပေါ်၍လာ**

အရှင်ဇနကာဘိဝံသသည်ယခုအခါကျမ်းပြုမှော် အောင်သွားပြီဟု ဆိုရပါမည်၊ အဘယ့်ကြောင့်ဆိုသော် ရှေးရှေး ကျမ်း စာအုပ်ငယ်များ ထွက်လာသောအခါက ဆိုလျှင် မလိုသူများက"ဒါက ဘယ်ကျမ်းစာထဲက ယူရေးတာပါကွာ, ဒါကတော့ ဘယ်စာအုပ်ထဲက ကူးချတာကွ"ဟု အမနာပ ပြောကြသောသူများ ရှိခဲ့၏၊ ယခု သင်္ဂြိုဟ်ဘာသာဋီကာကျမ်းကြီး ထွက်လာသောအခါတွင်ကား ထိုအပြောမျိုး ပြောစရာမရှိ ဖြစ်နေတော့သည်။

အရှင်ဇနကာဘိဝံသ၏စွမ်းရည်ကို ဤကျမ်းကြီးတွင် ကြည့်၍ သိနိုင်သောကြောင့် ဖြစ်၏၊ ဤကျမ်းကြီးကိုလည်း အများက လက်ခံ၍ စံပြုကြ၏၊ ဤအချိန် ဤအခါမှ စ၍ အရှင်ဇနကာဘိဝံသ၏ အရေးအသား အတွေးအခေါ် အယူအဆတို့ကို လက်ခံလာကြသဖြင့် "ကျမ်းပြုမှော် အောင်လေပြီ"ဟု ဆိုလိုက်ရခြင်း ဖြစ်ပေသည်။

အချိန်ကား ၁၂၉၈-ခုနှစ်သို့ ရောက်လေပြီ၊ အရှင်ဇနကာဘိဝံသ၏ ဘဝလမ်းကြောင်းသည် ကလေးသူငယ်ဘဝ, စာသင်သားဘဝ, စာချ ဘုန်းကြီးဘဝ, ယခုအခါ ကျမ်းပြုဆရာတော်ဘဝ သို့ပင် ရောက်နေလေပြီ၊ တစ်ဖက်မှ ကျမ်းစာရေးသားရင်းဖြင့် တာဝန်တို့ကို ထမ်းဆောင်လျက် နေသည်၊ ဤသို့ဖြင့် ယခုအခါ စတုတ္ထကျမ်းစာအဖြစ် "သင်္ဂြိုဟ်ဘာသာဋီကာ"ကျမ်းကြီးကိုပင် ထုတ်ဝေ ပြီးလေပြီ၊ အရှင်ဇနကာဘိဝံသအဖို့ တက်လမ်းသာ ရှိတော့၏ဟု ဆိုဖွယ် ဖြစ်၏၊ သို့သော် ဤသို့ အစဉ်မှတ်၍ မဖြစ်သေး၊ လောကကြီးဓမ္မတာမှာ တစ်ဦးမြင့်တက်လာလျှင် တစ်ဦးက မနာလို ရှိတတ်သေးသည် မဟုတ်ပါလော။ ။

**ဝိဘတ်နှင့်သုံးချက်စု, ကိုယ်ကျင့်အဘိဓမ္မာ**

သင်္ဂြိုဟ် ဘာသာဋီကာ ကျမ်းကြီး ထွက်ပြီးသောအခါ မူလသင်္ဂြိုဟ်အဖွင့် ကျမ်းကြီးမှ ခွဲထုတ်ထားခဲ့သော **"ဝိဘတ်နှင့် သုံးချက်စုဘာသာဋီကာ"** စာအုပ်ထွက်ဖို့ရန် စီမံရပြန်တော့၏။

ဤစာအုပ်ကား ပဉ္စမမြောက် ဖြစ်၏၊ ၁၃၀၀-ပြည့်နှစ်တွင် ရိုက်နှိပ်ပြီးစီးသည်၊ ဤသို့လျှင် ရဟန်း သာမဏေများအတွက် အဘိဓမ္မာနှင့်ဆိုင်ရာ အခြေပြုသင်္ဂြိုဟ်, သင်္ဂြိုဟ်ဘာသာဋီကာ, ဝိဘတ်နှင့် သုံးချက်စုဘာသာဋီကာများ ရေးထားသည်ကို အချို့ လူပုဂ္ဂိုလ်တို့ပါ လိုက်ဖတ်နေ၍ နားမလည်နိုင် ဖြစ်နေကြသည် ဆို၏။

ထို့ကြောင့် အရပ်သား လူပုဂ္ဂိုလ်တို့နှင့် လိုက်လျောအောင် အရပ်သား လူပုဂ္ဂိုလ်တို့ နားလည်လောက်ရုံ မှန်း၍ အဘိဓမ္မာသဘောကို သုတ္တန်နှင့်နှော၍ပြီးလျှင် **"ကိုယ်ကျင့်အဘိဓမ္မာ"**ဟူ၍ ဆဋ္ဌမကျမ်းစာ ထွက်ပေးရပြန်ပါသည်။

ရှေးအခါက "အဘိဓမ္မာ"ဆိုလျှင် စာအုပ်ကြီးတွေ ထဲမှာသာ ရှိ၍ ခေါင်းရင်းအမြင့်မှာ ထားပြီး ကိုးကွယ်ရသော စာတွေမျှသာ သိမှတ်ခဲ့ကြ၏၊ ကျင့်ရသော အကျင့်ဟူ၍ အမှတ်မထားခဲ့။

အဘယ့်ကြောင့်ဆိုသော် တရားသဘောတို့က မြင့်လည်း မြင့်၍ သိဖို့လည်း ခက်, လေးလည်း လေးနက်ကြသောကြောင့် ဖြစ်ပေသည်။

ထို့ကြောင့် အရှင် ဇနကာဘိဝံသ က ဤ သဘာဝသတ္တိတို့ကို သိထား၍ "မြင့်မားသော အဘိဓမ္မာသဘောတို့ကိုသိလွယ်မြင်လွယ်အောင် ပြောဖို့ရာ သုတ္တန်နှင့်နှောမှ ဖြစ်မည်"ဟု သဘော ပေါက်ထား၏၊ သို့နှင့်လေးနက်သော အဘိဓမ္မာ ကို သုတ္တန်အကြောင်းအရာတို့ဖြင့် တန်ဆာဆင် လိုက်သောအခါ ပေါ်ပေါ်လွင်လွင် သိစရာ, ဖတ် စရာ, မှတ်စရာ, ကျင့်ဖွယ်ရာဟု မြင်လာကြရ တော့သည်။

ကိုယ်ကျင့်အဘိဓမ္မာ ရေးသားပြီးချိန်တွင် အရှင်ဇနကာဘိဝံသမှာ သက်တော် ၄၀ ပြည့် လေပြီ၊ အချိန်ကာလအားဖြင့်လည်း ၁၃၀၁-ခုနှစ် ပိုင်းသို့ ရောက်သွားလေပြီ၊ အရှင်ဇနကာဘိဝံသ မှာ ငယ်စဉ်ဘဝမှစ၍ ယခု အသက် ၄၀ တိုင် အောင် ရပ်ရ နားရ အမောဖြေရသည် မရှိသေး၊ မိမိစွမ်းနိုင်သည့်ဘက်မှ တက်တက် ကြွကြွ လှုံ့လ ခွန်အား ဖွဲ့ဉာဏ်များဖြင့် နင်လား ငါလား လှုပ်ရှားအားအင် အလုပ်ခွင်၌ စိတ်လျှင် ချထား ကြိုးစားနေခဲ့သည်။

**အနှစ်လေးဆယ်, ခုအရွယ်ကား,**
**လူ့ဝယ်ထက်အောက်, တစ်ဝက်ရောက်ပေါ့၊**
**ခုလောက်မှာပင်, အလုပ်ခွင်၌,**
**စိတ်လျှင်မပြတ်, ကိုယ်ပါကပ်၍,**
**ပြတ်ပြတ်သားသား, လှုံ့လထားသည်...**
**နင်လား ငါဟဲ့, ကြိုးစားခဲ့။ ။**

## ကျန်းမာရေးပြန်လည်ကောင်းလာခဲ့

### ကံ, စိတ်, ဥတု, အာဟာရ ပြည့်စုံလာ၍

ယခုအခါ အရှင်ဇနကာဘိဝံသမှာ ကျန်းမာ ရေး အခြေအနေ အတော် ပြန်ကောင်းလာခဲ့ သည်၊ ထိုအကြောင်းကြောင့်လည်း ယခုအခါ နင်လားဟဲ့, ငါလားဟဲ့အနေမျိုး ကြိုးစားနေနိုင် ခြင်း ဖြစ်ပေ၏။

ရှေးက ဆိုလျှင် စိုးရိမ်စရာပင် ဖြစ်ခဲ့ရ၏၊ ငယ်စဉ်မှ စလျက် စာမေးပွဲများ ပြီး၍ စာချ ဘုန်းကြီးဘဝ ဖြစ်သည့်တိုင်အောင် စာထဲမှာသာ စိတ်ကို နှစ်ထားခဲ့သည်၊ ကျန်းမာရေးကို ဂရု မစိုက်ခဲ့၊ ကျန်းမာရေးဗဟုသုတလည်း မရှိခဲ့။

ဤသို့ဖြင့် စာချဘုန်းကြီးဘဝသို့ ရောက်သော အခါ ခန္ဓာကိုယ်မှာ အားအင်နည်း၍ ယိုင်လဲလုမျှ ဖြစ်ခဲ့ရတော့သည်၊ ဤအခြေအနေတွင်"အသက် ဉာဏ်စောင့်"ဟူသကဲ့သို့ ခန္ဓာကိုယ်ကို စွမ်းအား ရှိသမျှ ဉာဏ်ဖြင့် ဖေးမ စောင့်ရှောက်ခဲ့ရ၏။ လက်လှန်းမီရာ ဆေးဝါးဓာတ်စာတို့ဖြင့် ကုသခဲ့ရ သည်၊ စာပေပို့ချနိုင်ဖို့, ကျမ်းစာများ ရေးသား နိုင်ဖို့ အတွက် အဖက်ဖက်က ဉာဏ်ကူ၍ ခန္ဓာ ကိုယ်ကို ထူခဲ့ရတော့သည်။

ထိုအချိန်တွင် မြောင်းမြမြို့နယ် ကျွန်းကုန်း ရွာကြီး၌**"ရွှေကျောင်တိုက်သစ်"**တည်ထောင်ပြီးခါစ ဖြစ်၏၊ ဘုန်းတော်ကြီး**ဦးနာယက**က လာစေချင် သည်ဟု အကြောင်းကြားသည်၊ ဘုန်းတော်ကြီး ဦးနာယကဟူသည်မှာ မြောင်းမြဆရာတော်ကြီး နှင့် သက်တူ ရွယ်မျှ ဖြစ်၍ အလွန် ရင်းနှီးကြ, သံယောဇဉ် ကြီးတော်မူကြသော ဆရာတော် နှစ်ပါး ဖြစ်၏၊ မန္တလေး ဝိသုဒ္ဓါရုံမှာ နေကြစဉ်က မြောင်းမြ ဆရာတော်လောင်းထံမှာ ဘုန်းတော် ကြီး ဦးနာယကက စာတက်ဖူး၍ အထူးပင် လေးစားတော်မူသည်။

ထိုသို့အကြောင်းကြားချက်အရ အရှင်ဇနကာဘိဝံသတစ်ပါးတည်း ကြွသွားခဲ့သည်၊ ကြွမလာမီကပင် အရှင်ဇနကာဘိဝံသနေဖို့ဆိုပြီး သီးသန့်ခနိမိုးသစ်သားကျောင်းကလေး တစ်လုံး စီစဉ်ထားနှင့်သည် ဆို၏။

စီစဉ်ပုံမှာ တိုင်က ကွမ်းသီးပင်, အသား, ထုပ်လျှောက်ဒိုင်းမြားကလည်း ကွမ်းသီးသား, အခင်းများကလည်း ကွမ်းသီးသား အခြမ်းမျိုး, အမိုးတစ်ခုသာခနိတဲ့၊ "ရာသီဥတုက ကောင်းကောင်း, ထိုကျောင်းကလေးမှာ နေရ၍ လျှောက်ပတ်သော အစာအာဟာရများ, သင့်တော်မည့် ဆေးဝါးဓာတ်စာများကို ရသဖြင့် ကျန်းမာရေးအခြေအနေ ပြန်လည်သစ်ဆန်း, သိသိသာသာကြီး လန်းကာ ကျန်းမာဝဖြိုးလာသည်"ဟု အကြောင်းစပ်တိုင်း မိန့်ကြားတတ်ပါ၏။

ပြုစုကြသော ဒါယကာ ဒါယိကာမတို့ကိုလည်း မကြာခဏပင် ကျေးဇူးတင်ကြောင်း ပြန်ပြောင်း မိန့်ဆိုလေ့ရှိသည်၊ ထိုစဉ်က စိတ်ချမ်းသာလွန်း၍ နေထိုင်ခဲ့ရသော ကျောင်းကလေးကိုပင်-

**သပ္ပာယော အာလယော မယှံ,**
**သောကရောဂံ တိကိစ္ဆကံ၊**
**ဂန္ထကမ္မံ ပဓာနာယ,**
**သန္တော သန္တသုမာပိတော။**

သန္တော-လေးပင်တိုင်တန်း, ခနိလွှမ်းလျက်, ဆန်းပြားပလေ, လွှမ်းအားပြေအောင်, ကြမ်းကြားလေ တညင်းညင်းနှင့်, တသင်းသင်း အေးမြပေထသော"စသည်ဖြင့် ဥဒါန်းဂါထာ ဖွဲ့သီကာ ရွတ်ဆိုချီးကျူးနေမိပါသေးသည် ဟူ၏။

**ကျန်းမာရေးဆိုတာ ပြုပြင်သလို ရနိုင်**

ဆရာတော် အရှင်ဇနကာဘိဝံသက ပြန်လည်ပြောပြတတ်ပါ၏၊ "အောက်ပြည် အောက်ရွာ မြောင်းမြမြို့နယ်က ကွန်းကုန်းရွာ ရွှေကျင်တိုက်သစ်မှာ လေးလလောက် အနားယူနေခဲ့ဖူးတယ်၊ အဲဒီအတွင်းမှာ ကျန်းမာရေးဟာ သိသိသာသာကြီး ပြောင်းလဲလာခဲ့တယ်၊ ဘာလို့လဲဆိုတော့ အောက်ပြည်အောက်ရွာမှာ ရာသီဥတုကလည်းကောင်း, သင့်တော်တဲ့ ဆေးဝါးဓာတ်စာ အာဟာရတွေလည်း ရ, ဒီတော့ စိတ်လည်း ချမ်းသာနေတော့တာပေါ့၊ စိတ်ချမ်းသာတော့ ကလည်း မြင့်နေတယ်၊ ကောင်းနေတယ်လို့ ဆိုရမှာပဲ၊ ဒီတော့ ဥတုဇရုပ်တွေ, အာဟာရဇရုပ်တွေ, စိတ္တဇရုပ်တွေ, ကမ္မဇရုပ်တွေလည်း တိုးနေမှာ အမှန်ပဲ၊ ဒီနည်းနဲ့ ကျန်းမာရေးဟာ သိသိသာသာကြီး ပြောင်းလွဲလာတာကို တွေ့ရတယ်။

အဲဒီအခါမှ "ကျန်းမာရေးဆိုတာ ပြုပြင်လို့ ရနိုင်တာပါလား"လို့ သိလာရတယ်၊ အဲဒီမှာ ကျန်းမာရေးဗဟုသုတတွေလည်း တိုးလာခဲ့ရတယ်"တဲ့၊ "အဲလို ကျန်းမာရေးတွေ ကောင်းလာတော့ စိတ်ချမ်းသာ ကိုယ်ချမ်းသာနဲ့ အခြေပြုသဒ္ဒါကို အဲဒီမှာ အများဆုံးရေးခဲ့တာပဲ"တဲ့။

"ပြီးတော့ အဲဒီတုန်းက သဂြိုဟ်ဘာသာဋီကာကြီးကလည်း မထွက်နိုင်သေးတော့ ရေးပြီးမူကြမ်းတွေကို အဲဒီမှာပဲ ပြန်လည် စိစစ်, တချို့အသစ်ရေး လုပ်ခဲ့တယ်"တဲ့၊ "နောက်တော့ အဲဒီက စပြီး ရခဲ့တဲ့ ကျန်းမာရေးတွေကို မပျက်အောင် ဆက်လက် ထိန်းသိမ်းလာခဲ့နိုင်လို့ ယခုထိအောင် ကျန်းမာရေးတွေ ကောင်းနေခဲ့တာပဲ"ဟု ပြန်လည် အမိန့်ရှိဖူးပါသည်။

# ပဥ္စမဆယ်စုနှစ်

၁၃၀၁-၁၃၁၁



"အသက်ငါးဆယ်, ထိုသည့်နယ်ကား, အရွယ်လည်းတင့်,
ဉာဏ်လည်းပွင့်၍, ဆင့်ဆင့်တက်ကြောင်း, ဆက်ဖို့ကောင်းလည်း,
အကြောင်းမဟန်, အဟောင်းကံကြောင့်"

# ပရိသတ်က လက်ခံတောင်းဆိုလာကြ၍

**ဝိနယော နာမ သာသနဿ အာယု** ယခုအထိ ပြီးစီး ထွက်ပေါ်ခဲ့သော ကျမ်းစာတို့မှာ ဦးစွာ ပထမ ရတနာသုံးပါးကို ဦးထိပ်ထားသည့်အနေဖြင့် ရတနာ့ဂုဏ်ရည်၊ ထို့နောက် အဘိဓမ္မာဘက်တွင် အခြေပြုသင်္ဂြိုဟ်နှင့် သင်္ဂြိုဟ်ဘာသာဋီကာ၊ ဝီထိနှင့်သုံးချက်စု၊ ထို့ပြင် အဘိဓမ္မာကိုပင် သုတ္တန်နှင့် တန်ဆာဆင်ထားသော ကိုယ်ကျင့်အဘိဓမ္မာတို့ ဖြစ်ကြ၏၊ သဒ္ဒါဘက်တွင်ကား အခြေပြုသဒ္ဒါ ထွက်ခဲ့ပြီ၊ လိုနေသေးသည်ကား ဝိနည်းဘက်ဖြစ်သည်၊ ပရိသတ်ကလည်း ရဟန်းပရိသတ် လူပရိသတ်နှစ်ရပ်လုံးကပင် ထွက်ပြီးသမျှစာအုပ်တို့ကို ကျေနပ်ဝမ်းမြောက်စွာ လက်ခံသုံးစွဲနေကြ၏၊ ထို့ကြောင့် အရှင်ဇနကာဘိဝံသ ဘက်ကအားတက်၍ ရေးအားရှိလာတော့သည်။

သို့ဖြစ်၍ ရဟန်းတော်များအတွက် ဝိနည်းဘက်ဆိုင်ရာ **"ပါတိမောက်ဘာသာဋီကာ"**ကို စတင် ရေးရပြန်တော့၏၊ ယင်းကား သတ္တမမြောက်စာအုပ်ဖြစ်သည်၊ ဝိနည်းဘက်ဆိုင်ရာ ပါတိမောက်ဘာသာဋီကာသည် သာသနာတော်အတွက် အချက်အချာပင် ဖြစ်၏၊ ထို့ကြောင့် "ဝိနည်းကို သာသနာတော်၏ အသက်"ဟူ၍ပင် ဆိုကြသည်၊ ဝိနည်းမရှိလျှင် သာသနာ မရှိနိုင်တော့ပြီ၊ ထို့ကြောင့်ပင် **"ဝိနယော နာမ သာသနဿ အာယု-ခန္ဓာကိုယ်၌** ကျင့်သုံးသောအားဖြင့် ဝိနည်းကျင့်ဝတ်တည်မှသာ သာသနာ တည်ရှိသည်ဟု ဆိုနိုင်မည်"ဟု မိန့်တော်မူကြခြင်းဖြစ်၏။

ပါတိမောက်ဘာသာဋီကာ ထွက်ပေါ်လာချိန်ကား ၁၃၀၂-ခုနှစ်ထဲတွင် ဖြစ်၏၊ ရေးသားပုံအစီအစဉ်၊ တင်ပြပုံ အသွင်အပြင်တို့မှာ ထုံးစံအတိုင်း ခေတ်မီ၏၊ သွက်လက်၏၊ နက်နဲခက်ခဲ တိမ်မြုပ်နေသော ဝိနည်းပညတ်များကိုပင် ပေါ်လွင်ထင်ရှားစွာ ပျော့ရွှင်စရာဖြစ်အောင် ဖန်တီးပေးထားသည်၊ ကဗျာလင်္ကာဆောင်ပုဒ်ကလေးများဖြင့် မှတ်ဖွယ်ကောင်းသောနေရာများတွင်လည်းကောင်း၊ တစ်ပုဒ်တစ်ပုဒ်ပြီးဆုံးတိုင်း၌လည်းကောင်း တန်ဆာဆင်ထားသည်၊ ထူးခြားသော တင်ပြဟန်ပင် ဖြစ်တော့သည်။ ။

**ပရဟိတအတွက် စိတ်ထက်သန်စွာဖြင့်** အရှင် ဇနကာဘိဝံသကား ... မန္တလေးမြို့ အနောက်ပြင် အဘယာရာမကျောင်းတိုက်ကြီး၌ သီတင်းသုံးလာခဲ့သည်မှာ ယခုအချိန်ထိဆိုလျှင် ၁၂-နှစ်ကျော်၍ ၁၃-နှစ်တွင်းသို့ပင် ဝင်လာခဲ့ချေပြီ၊ ဤအတွင်း၌ မိမိတာဝန်ကျရာ စာဝါတို့ကို စာသင်သားတို့အား ချပို့ပေးခြင်း၊ ကျမ်းစာတို့ကို ရေးသားခြင်း၊ ကျောင်းတိုက်အုပ်ချုပ်ရေးတို့၌ ပါဝင်ရခြင်း၊ တရားဟောစရာရှိလျှင် (အဘယာရာမ ဆရာတော်ကြီးက တရားမဟော သဖြင့်) အရှင်ဇနကာဘိဝံသကပင် အများအားဖြင့် ဟောရခြင်းစသော တာဝန်တို့ကို ယူရ၏။

ထို့ပြင် ဆရာတော်ကြီး အထံသို့ အခြားသော မြို့ရွာနယ်ပယ်တို့မှ အမေးပုစ္ဆာပြဿနာ ဆုံးဖြတ်စရာများ ရောက်လာလျှင်လည်း ဆရာတော်ကြီး ခိုင်းစေသမျှကို ကူညီဆောင်ရွက်ပေးရသည်။

တစ်ခါတစ်ရံတွင်မူ ဆရာတော်ကြီး အထံသို့ အပ်နှံလာသော တရားတစ်ထုံးတစ်ဖွဲ့ဆုံးဖြတ်ရန်အတွက် အခြားမြို့ရွာများသို့ ဆရာတော်ကြီးများနှင့်အတူ လိုက်ပါရ၏၊ ဝိသုဒ္ဓါရုံတိုက်မှာ ရွှေကျင်အစည်းအဝေး ရှိပါက (ဆရာတော်ကြီး ရှိလျှင်) ဆရာတော်ကြီးနှင့်အတူ သွားရခြင်း၊ ဆရာတော်ကြီးသီဟိုဠ်သို့ ကြွနေခိုက်ကမူ အရှင်ဇနကာဘိဝံသချည်းပင် အစည်းအဝေးသို့ ကိုယ်စား တက်ရခြင်း၊ အချို့ စာမေးပွဲများအတွက် မေးခွန်း ထုတ်ဖို့ရာ ဆရာတော်ကြီးနှင့်အတူ လိုက်ရခြင်းစသော တာဝန်တို့ကို ဆောင်ရွက်ခဲ့ရသည်။

ဤသို့သော ကိစ္စများအပြင် မိမိရေးသားရိုက်နှိပ်နေသော ကျမ်းစာများကိုလည်း စာပုံနှိပ်စက်ရှိရာ အရပ်ထဲသို့ သွား၍ သွား၍ **"ပရု"** ပြင်ရခြင်း၊ စာအနေအထား ကောင်းအောင် စီမံရခြင်း၊ ကျမ်းစာကို သုံးစွဲသူပရိသတ်တို့ စိတ်ဓာတ် ရှင်းရှင်းဖြင့်

သိလွယ်မြင်လွယ်အောင် ဖန်တီးရခြင်း, မူကောင်း မူသန့် စာမူဖြစ်ရေး ကြိုးစားရခြင်း စသည်တို့ဖြင့် အားလပ်သည်မရှိလောက်အောင် ပရဟိတအတွက် ဆောင်ရွက်နေခဲ့သည်။

ကျန်းမာရေးလည်း ကောင်းလာချိန် အသက် ၄၀-ကျော်အရွယ် အလုပ်လုပ်ဖို့ အင်အားပြည့်ချိန် လည်းဖြစ်သဖြင့် အမြဲတမ်း စိတ်အားထက်သန် လျက် ရှိနေခဲ့တော့သည်။

## ပိဋကတ်စာမူ သန့်စင်ရေး

အရှင်ဇနကာဘိဝံသမှာ ကိုယ်ပိုင်ကျမ်းစာများ ရေးသားနေရုံသာမက အပြင်မှာရှိသော ပိဋက ပါဠိမူများလည်း သန့်သန့်ပြန့်ပြန့် ဖြစ်စေလို၏၊ ထို ခေတ်က ပိဋကစာအုပ်စာမူများမှာ အပြင်အဆင်, အထားအသို ကျေနပ်လောက်သော အဆင့်များ မရှိ ကြသေးပါ၊ ပြစ်ခဲနေအောင် အများအားဖြင့် ပုံနှိပ် ထားတတ်ကြသည်။

ထို့ကြောင့် အရှင်ဇနကာဘိဝံသကား စံပြ အနေဖြင့် မိမိ၏ကျမ်းစာအုပ်များကို သားသား နားနားဖြစ်အောင် စီစဉ်ကြိုးစားပြနေဆဲ ဖြစ်၏၊ အခြား အခြားသော ပိဋကစာမူများကိုလည်း ဤ အတိုင်းပင် ဖြစ်စေလိုသည်၊ ထိုသို့ဖြစ်စေနိုင်လောက် သော အခြေခံမှာ ကျောင်းတိုက်အနီးအနား၌ မိမိတို့ သဘောကျ စီမံနိုင်သော ပုံနှိပ်စက်ရှိမှ ဖြစ်နိုင်မည်၊ အဘယာရာမဆရာတော်ဘုရားကလည်း "ဘယ် နည်း ဘယ်ပုံဖြင့် သာသနာတော်မှာရှိသည့် ပိဋက စာမူတွေ သန့်ပါမည်နည်း"ဟု ရှေးမဆွကပင် အမြဲ မျှော် လင့်နေခဲ့သည်။

ပုံနှိပ်စက်ရှိရာ ရပ်ကွက်ထဲသို့ နေ့စဉ်နေ့တိုင်း သွား၍ စာပြင်နေရသည်မှာလည်း အသက်အရွယ် ထောက်လာသောအခါ မလျော်တော့ပေ၊ ထိုသို့သော အခြေအနေတို့မှ ကင်းလွတ်နိုင်ရန်လည်းကောင်း, စာမူသန့်သန့်တွေ ရနိုင်ရန်လည်းကောင်း ဖြစ်နိုင်ဖို့ အကြောင်းအခြေခံမှာ ယခင်ရည်ရွယ်ချက်အတိုင်း ကျောင်းတိုက်အနီးမှာ စာပုံနှိပ်စက်ရှိမှ ဖြစ်တော့ မည်၊ ထို့ကြောင့် တစ်နေ့သောအခါ ...စာပုံနှိပ်စက် အဟောင်းကလေးတစ်လုံးကို (နီးစပ်ရာ ဒါယကာ ဒါယိကာမများအနေဖြင့်) ဝယ်လိုက်ကြတော့၏၊ ထိုအခါ မလိုသောသူတို့က သတင်းပုပ် သတင်းဆိုး လွှင့်ကြတော့သည်၊ "ဦးဇနက စီးပွားရေးတွေ လုပ် လာပြီ, မကြာမီလူထွက်လိမ့်မယ်"ဟူ၍ဖြစ်သတည်း။

ရည်ရွယ်ချက်နှင့် အခြေအနေတို့မှာ တစ်မျိုး တစ်ဖုံ ဖြစ်လာကြတော့၏၊ ဘယ်သို့ လုပ်ရမည်နည်း၊ အပြောအဆိုတို့မှ ကင်းလွတ်အောင် အလုပ်ကိုပင် ရပ်တန့်မည်လော၊ သို့မဟုတ် ရည်ရွယ်ချက်အောင် မြင်အောင် လုပ်မြဲတိုင်းပင် အလုပ်ကို ဆက်လက် လုပ်မည်လော? လောကကြီးမှာ အလုပ်လုပ်လာ လျှင် ဤသို့ပင် တွေ့ရတတ်သည်ကား ဓမ္မတာပင် ဖြစ်၏၊ မဆန်းတော့ပြီ၊ ဤမျှ တွေ့ကြုံရသော လောကဓံတရားကလေးများကို ကြောက်ရွံ့တုန်လှုပ် နေပါလျှင် မြင့်မြတ်သော ရည်ရွယ်ချက်ပန်းတိုင်သို့ အဘယ်မှာလျှင် ဝင်နိုင်ပါအံ့နည်း၊ ဤသို့ပင် ဆုံးဖြတ်၍ ဆက်လက်လုပ်ရန် အတည်ပြုလိုက်လေ တော့သည်။

# ဩဘာလက်ခုပ်မှ ရှုတ်ချတဲ့ လက်ညှိုးသို့

**နီနွံ ပသံသံ လောကစံ** အရှင်ဇနကာဘိဝံသ ကား...ကြီးမားသော စေတနာ, ကျယ်ပြန့်သောမေတ္တာဖြင့် သာသနာ တော်ကြီး တစ်ခုလုံးအတွက်ပါ ရှေ့ကို ကျော်၍ မြော်မြော်မြင်မြင် အလုပ် လုပ်နေသူ ဖြစ်ပါ၏၊ အမျိုးကို ချစ်၏၊ ဘာသာကို ခင်၏၊ သာသနာတော် ကို မြတ်နိုး၏၊ "ကိုယ့် အမျိုး ဘာသာ သာသနာ တော်အတွက် ဘယ်လိုမှ ဂုဏ်တက်ပါ့မလဲ" ဟူ၍

အမြဲတွေးကြံနေသူ ဖြစ်သည်၊ ဣဿာ ပြောထူ၊ အပြစ်မြင်သော ထိုသူတို့နှင့် အမြင်ချင်း ကွာဝေးလှ၏၊ ထို့ကြောင့် အရှင်ဇနကာဘိဝံသကား နောက်မဆုတ်ပေ၊ ထိုပြောသံများကို မကြားဟန် ပြု၍ ဆက်လက် အလုပ်လုပ်နေ၏၊ ထိုအခါ မလိုသူတို့က ပိုမို၍ သတင်းပုပ် သတင်းဆိုးတို့ကို အမျိုးမျိုး လည်ဆယ်ကာ မိုးမွှန်အောင် ဖြန့်ကြလေတော့သည်။

အရှင်ဇနကာဘိဝံသကား ကလေးသူငယ်ဘဝမှစ၍ သာမဏေဘဝ, ရဟန်းငယ်ဘဝ, စာချဘုန်းကြီးကလေးဘဝ, ကျမ်းပြုဆရာတော်ကလေးဘဝတို့တိုင်အောင် ကံ ဉာဏ် ဖွဲ့လုံ့လတို့ဖြင့် ကြိုးစားခဲ့မှုကြောင့် **"ပသံသာ"** ဟူသော ချီးမွမ်း ဩဘာလက်ခုပ်သံ ပေးခြင်းကို ခံယူခဲ့ရသည်။

ယခုအခါတွင်မူ တစ်မူပြောင်းလွဲခဲ့လေပြီ၊ တီးနေသော ဩဘာလက်ခုပ်သံတို့သည် တဖြည်းဖြည်း အသံတိုးသွားရာမှ (အနည်းငယ်မျှသာ ကျန်တော့ပြီးလျှင်) ဝိုင်းထိုးသော လက်ညှိုးအဖြစ်သို့ ပြောင်းသွားကြသည်၊ ပြောင်းသွားအောင် ဖန်တီးသူများ ရှိကြသည်၊ ယခုအခါ **"နိန္ဒာ"** ဟူသော ကဲ့ရဲ့ရှုတ်ချခြင်းကို ရရှိနေပြန်တော့သည်။

သို့တစေလည်း အရှင်ဇနကာဘိဝံသကား... "ကိုယ်က မှန်နေဖို့သာ အရေးကြီး၏၊ {**နတ္ထိ လောကေ အနိန္ဒိတော**} လောကမှာ ကဲ့ရဲ့လွတ်သူ တစ်ယောက်မျှ မရှိ" ဟူသော တရားသဘောဖြင့် ကိုယ့်ကိုယ်ကို အားတင်းနိုင်ခဲ့သည်။

## ဌာနပြောင်းရန် အကြောင်းဖန်



**အတိသုဆရာတော်**

အပြစ်ပြောသူများမှာ လွယ်လွယ်ကလေးသာ ဖြစ်၏၊ တစ်ဖက်သား၏ အခက်အခဲကို နည်းနည်းလေးမျှ သူတို့မတွေး၊ နံဘေးမှကြည့်၍ အပြစ်ဆိုဖို့ရာသာ စောင့်နေသူများ ဖြစ်ကြ၏၊ အရှင်ဇနကာဘိဝံသ၏ ပတ်ဝန်းကျင်တို့သည် ရင်နှီးသူ ကျောင်းအမကြီးများကိုပါ ခလုတ်တိုက်ထားကြသဖြင့်ကြာသော် နံ့ရလေ၏၊ ထိုအခါ အရှင်ဇနကာဘိဝံသမှာ ဤသို့ စဉ်းစားရတော့သည်၊ "ငါမှာ အပြစ် ကင်းကင်းနှင့် အလုပ်ဖြစ်ဖို့ ကုသိုလ်ရဖို့ ဖန်တီးသော်လည်း အများမျက်စိ၌ အပြစ်ဟူ၍ချည်းမြင်နေကြသည်၊ ဤနေရာ ဤဌာန၌ အလုပ်လုပ်၍ ဖြစ်တော့မည် မဟုတ်ချေ၊ ထို့ကြောင့် နေရာဌာနပြောင်းမှ ဖြစ်တော့မည်"ဟု စဉ်းစားရသည့် အခြေအနေသို့ ရောက်လာတော့၏။

သို့သော် အချိန်အတန်ကြာအောင်ပင် သည်းခံအောင့်အည်း၍ မိမိဆောင်ရွက်စရာရှိသည်တို့ကို အချိန်မပျက် ဆောင်ရွက်နေခဲ့၏၊ သို့သော် အပြစ်ရှာသူတို့ကား လက်မလျှော့ကြပေ၊ ကဲလျက်ပင်နေသည်၊ ထို့ကြောင့် နောက်ဆုံးတွင်"ပြောင်းရွှေ့မှ ဖြစ်တော့မည်"ဟု အပြီးအပိုင်ဆုံးဖြတ်လိုက်တော့၏။

အချိန်ကား ၁၃၀၂-ခုနှစ်နောက်ပိုင်းတွင် ဖြစ်သည်၊ ပြောင်းရွှေ့ရန်ကြံစည်ထားသော နေရာဌာနကား မန္တလေးမြို့၏ တောင်ဘက် ၇-မိုင်အကွာ အမရပူရ(တောင်မြို့)ဖြစ်သည်၊ ထိုနေရာကား အရှင်ဇနကာဘိဝံသ ရဟန်းအမများ၏ မိဘများ တည်ထောင်ခဲ့သော ကျောင်းတိုက်ဖြစ်သည်၊ ဒုတိယ အကြိမ် မိမိ သိမ်ထပ်ခဲ့သော ကျောင်းတိုက်လည်း ဟုတ်၏၊ **"မဟာဂန္ဓာရုံကမ္မဋ္ဌာန်းကျောင်းတိုက်"**ဟု အမည်တွင်သည်၊ စစ်ကိုင်းတောင်ရိုး မဟာဂန္ဓာရုံ

ဆရာတော်ကြီးများက အမရပူရနှင့် အရှင်ဇနကကို ရဟန်းခံခြင်းဖြင့် တစ်ချိန်က ဆွေမျိုးတော်စပ်ပေးခဲ့ရာ ယခုအခါ ဆွေမျိုးပုံသွင် ပီပီပြင်ပြင် ဖြစ်လာပေတော့မည်။

ထိုအချိန်က ထိုကျောင်းတိုက်၌ အုပ်ချုပ်နေထိုင်လျက်ရှိသော တိုက်ပိုင်ဆရာတော်မှာ **အတိသုခ** ဆရာတော်ကြီးဖြစ်၏၊ ထို့ကြောင့် ဂန္ဓာရုံသို့ ပြောင်းရွှေ့လာလိုကြောင်းကို ကြိုတင်လျှောက်ထားသောအခါ ဆရာတော်ကြီးမှာ အတိုင်းမသိ ဝမ်းသာသွားတော့သည်၊ ဝမ်းသာလွန်း၍ "တို့တိုက်တော့ ကြီးပွားစည်ကားဦးတော့မှာပဲ၊ နိမိတ်တွေ သိပ်ကောင်းတယ်"ဟု အားရစွာ မိန့်တော်မူပါသတတ်။

## နွေဦးသစ်စ သမယတွင်

**၁၃၀၂**-ခုနှစ် ကုန်လုလု တပေါင်းလထဲတွင်ဖြစ်၏၊ တောင်မြို့ ဂန္ဓာရုံကျောင်းတိုက်သို့ ဧကန်ပြောင်းရွှေ့တော့မည်ဟု ဆုံးဖြတ်ပြီးဖြစ်သည့်အတိုင်း တပည့်နှစ်ပါးကို ဦးစွာပထမ လွှတ်လိုက်သည်၊ တပည့်နှစ်ဦးမှာ ရဟန်းသိက္ခာ ၁-ဝါရ **ဦးဇိနောရသ**နှင့် ရဟန်းဖြစ်ခါနီး **ကိုရင်ဩဘာသ**တို့ ဖြစ်ကြ၏၊ ယင်းတပည့်နှစ်ပါးမှာ စာတော်သူများလည်း ဖြစ်ကြ၏၊ ပထမကြီးတန်းဝင်ဖို့ရာ စာများ အကုန်သင်ယူပြီး တက်ပြီး ဖြစ်ကြသည်။

ဆရာဖြစ်သူ အရှင်ဇနကာဘိဝံသက "မင်းတို့တွေ လာမည့် နယုန်လမှာ ဖြေရမှာ၊ စာဖြေချိန်လည်း နီးလာပြီ၊ တောင်မြို့က တိတ်ဆိတ်ငြိမ်သက်တယ်၊ စာကြည့်ဖို့ ကောင်းတယ်၊ အဲဒီကိုလည်း ရွှေ့ရမှာ အတူတူ အခုနှယ်က မင်းတို့ နှစ်ပါးက ဦးစွာရွှေ့နှင့်ကြ၊ ငါကတော့ နောက်မှပဲ လိုက်လာခဲ့မယ်" ဟူ၍အမိန့်ရှိသောကြောင့် တပေါင်းလထဲမှာ တပည့်နှစ်ပါးက ဦးစွာရွှေ့နှင့်လာကြသည်၊ ဟုတ်ပါ၏၊ တောင်မြို့ ဂန္ဓာရုံကျောင်းတိုက်သည် အမရပူရမြို့၏ အရှေ့ဘက် ခပ်လှမ်းလှမ်း တောင်သမန် အင်းစောင်း၌ တည်ရှိ၏၊ မူလကပင် ကမ္မဋ္ဌာန်းကျောင်းတိုက်လည်း ဖြစ်၏၊ သံဃာကလည်း မများသောကြောင့် အားလုံး တိတ်ဆိတ် ငြိမ်သက်နေတော့သည်။

အနေအထားကလည်း မြို့နှင့် မလှမ်းမကမ်း၊ လူတို့နှင့်လည်း မရောပြွမ်း၊ အကြားတွင် တောတန်းမြိုင်အုပ်တို့ဖြင့် ပိတ်ဆို့ ကာခြားထားသောကြောင့် တောရကျောင်းအလား ဖြစ်တော့သည်၊ သမာဓိရ၍ ချမ်းမြေ့ဖွယ် ကောင်းပါဘိခြင်း။

၁၃၀၃-ခု နှစ်သစ်ဦးသို့ ကူးပြောင်းခဲ့လေပြီ၊ တန်ခူးလ ကဆုန်လတို့ ကုန်ကြ၍ နယုန်လသို့ပင် တိုင်ခဲ့ပြီ၊ ဦးဇိနောရသနှင့်ကိုရင် ဩဘာသတို့လည်း နယုန်လတွင် ကျင်းပသော နိုင်ငံတော် အစိုးရ စာမေးပွဲ (အင်္ဂလိပ်အစိုးရလက်ထက် နောက်ဆုံး စာမေးပွဲ)၌ ပထမကြီးတန်းကို ဝင်ရောက် ဖြေဆိုလိုက်ကြသည်၊ ပြီးလျှင် ဂေဇက်မျှော်ရင်း အနားယူနေကြတော့သည်။

## အမရပူရ (တောင်မြို့)သို့

**နေရာအသစ် အားမာန်သစ်**

ဆရာဖြစ်သူ အရှင်ဇနကာဘိဝံသကား ၁၃၀၃-ခုနှစ် ဝါဆိုလ (၁၉၄၁- ခုနှစ် ဇူလိုင်လ) ထဲကျမှ မန္တလေးက တောင်မြို့သို့ ပြောင်းရွှေ့လာခဲ့တော့သည်၊ အသုံးပြုနေကျ စာအုပ်စာတန်းများ၊ ဗီရို၊ စားပွဲ၊ ကုလားထိုင်များ၊ စာသင်သားတို့ စာတက်ရာတွင် ထိုင်သော ခုံတန်းလျားများ စသည်တို့ကိုမူ မပြောင်းရွှေ့မီ အလျင် တစ်ရက်ကပင် လှည်းငါးစီးဖြင့် တင်၍ တောင်မြို့သို့ လွှတ်လိုက်ပြီး ဖြစ်၏၊ နောက်တစ်နေ့မှ အရှင်ဇနကာဘိဝံသက သမ်းပြေးကားဖြင့် လိုက်လာခဲ့သည် ဟူ၏၊ နေရာသစ်သို့ ရောက်လေပြီ၊ သာသနာတော်အတွက် စိတ်သစ် ကိုယ်သစ် အားမာန်သစ်ဖြင့် လုံ့လထုတ်၍ အလုပ်လုပ်ရပေတော့မည်။

ကိုရင်ဩဘာသမှာ ထိုနှစ် ဝါဆိုဦး၌ ရဟန်းဖြစ်၏၊ ထို့ကြောင့် ထိုအချိန်၌ ဂန္ဓာရုံတိုက်မှာ မန္တလေးက

ဆ. ထ



**ဦးသြဘာသ**
**တောင်မြို့သို့ ဦးစွာပါလာသော တပည့်ကြီး**

ပြောင်းလာကြသော ဆရာတပည့် ၃-ပါး, လက်ရှိ နေနှင့်ပြီး ၄-ပါးနှင့် ပေါင်း ၇-ပါးမျှသာ ရှိကြ၏၊ လက်ရှိ ၄-ပါးဟူသည်မှာ ၁-အတိသုခဆရာတော်ကြီး၊ ၂-ဦးသာကြွယ် ခေါ် ဦးသီလဝံသ၊ ၃-ဦးကောဏ္ဍည နှင့် ၄-တောထွက်ကိုယ်တော်ကြီး ဦးတေဇောဘာသ တို့ ဖြစ်၏၊ ထို့ပြင် ကပ္ပိယဒကာကြီး ဦးခ လည်း ရှိသေး၏။ ။

**ချမ်းမြေ့သာစွ နေရာရခဲ့**

ထိုစဉ်က ထိုကျောင်းတိုက်၌ မဟာဂန္ဓာရုံကျောင်းတိုက်ပိုင်ရှင် အတိသုခ ဆရာတော်ဘုရားကြီးက စေတီ၏မြောက်ဘက်ရှိ တစ်ထပ်အုတ်တိုက် (ဒေါင်းရုပ်တိုက်), ယခုအခေါ် စာချတိုက်မှာ သီတင်းသုံးတော်မူလျက် ရှိ၏၊ ယင်းတိုက်ကို ၁၂၇၉-ခုနှစ်က တည်ဆောက်၏၊ ဦးသာကြွယ်ခေါ် ဦးသီလဝံသမှာ စေတီနှင့်ကပ်လျက် မြောက်ဘက်က အာရုံခံ တစ်ထပ်တိုက်၌ သီတင်းသုံးတော်မူသည်။

ထိုသို့ သက်တော်ကြီး ဆရာတော်နှစ်ပါးက တိုက်တစ်လုံးစီမှာ သီတင်းသုံးတော်မူလျက်ရှိကြသောကြောင့် ဘုန်းတော်ကြီး ဦးကောဏ္ဍညနှင့်အတူ ဆရာတော်လေး အရှင်ဇနကာဘိဝံသက စေတီ၏ အရှေ့မြောက်ဘက်ရှိ ယခု အရှေ့တိုက်ကြီးဟု ခေါ်သော သိင်္ဂီရွှေရည်ကျောင်းနေရာ * (သိမ်မြေပေါ်မှာ) သစ်သားကျောင်းဟောင်းကြီး၌ သီတင်းသုံးတော်မူကြသည်။

လက်ရှိ တောထွက် ကိုယ်တော်ကြီး ဦးတေဇောဘာသနှင့် မန္တလေးမှ ပါလာကြသော တပည့်တို့ကား စေတီတော်၏ အရှေ့ဘက်က ယခု တောင်တိုက်ကြီးဟု ခေါ်သော တစ်ထပ်တိုက်ပြားကလေးမှာ အတူ နေထိုင်ကြသည်။ (နောက်မှ နှစ်ထပ်ဆင့်၍ တည်ခြင်း ဖြစ်သည်၊ ရှေးက တစ်ထပ်မျှသာ ခပ်ပြားပြား တည်ထားသည်။)

* **"သိင်္ဂီရွှေရည်ကျောင်းနေရာသိမ်မြေ"**ဟူသည် ၁၂၈၁-ခုနှစ် နယုန်လပြည့်နေ့က **အရှင်ဇနက** ဒုတိယအကြိမ် သိက္ခာထပ်ခဲ့သည်ဆိုသော သိမ်ဖြစ်၏၊ ယခုအခါ ကမ္ဗဝါဖြင့် ပယ်ဖျက်ထားပြီ။

**ရှိသမျှနှင့် လုပ်နေ်းစနဲ**

ထိုနှစ် ဝါတွင်း၌ ရှိသမျှ တပည့်နှစ်ပါးအား အရှင်ဇနကာဘိဝံသက စာပေပို့ချ၏၊ ဦးဇိနောရသနှင့် ဦးသြဘာသတို့အား သီလက္ခန်ပါဠိတော် အဋ္ဌကထာ ဋီကာသစ်ပါ တွဲဖက်၍ ပို့ချပေးသည်၊ လက်ရှိ ဆရာတော်များမှာ မူလကပင် ပဋိပတ်ကို ကြိုးကုတ်၍ အားထုတ်သော ဆရာတော်များ ဖြစ်ကြပါ၏၊ တစ်ပါးနှင့်တစ်ပါး မာန်မာနမထား, ဣဿာ မစ္ဆရိယ နည်းပါးတော်မူကြသဖြင့် အလွန် ကြည်ညိုဖွယ် ကောင်းကြပေသည်၊ "သာသနာတော်တွင် ဤကဲ့သို့သော အရှင်မြတ်များသာ နေထိုက်၍ ဤကဲ့သို့သော အရှင်မြတ်များကိုသာ ဘုရားက မြတ်နိုးတော်မူပေလိမ့်မည်"ဟု အရှင်ဇနကာဘိဝံသက မှတ်ချက်ချမိသည် ဟူ၏။ ။

အရှင်ဇနကာဘိဝံသကား...ဗုဒ္ဓါနုဿတိနှင့် မေတ္တာကို အထုံများခဲ့သူ ဖြစ်၍ မိမိ၏ လက်ကိုင်တရားများကို အခြေခံထားလျက် စာချခြင်း, စာရေးခြင်းအမှု ဆက်လက်ပြုတော်မူလေသည်၊ ထိုအခါက ရေးသားသော ကျမ်းစာမှာ **"ရူပသိဒ္ဓိဘာသာဋီကာ"** ဖြစ်၏၊ ထုံးစံအတိုင်း ဆရာတော်က အကြမ်းရေးပေးသည်ကို ဦးဇိနောရသနှင့် ဦးသြဘာသတို့က အချောကူးပေးရလေသည်။

ဆရာတော်၏ဝါဒမှာ **"ပရိသတ်နည်းသည်, များသည်က ပဓာန မဟုတ်, ရှိသမျှ ပရိသတ်ကလေးသည် သပ်သပ်ရပ်ရပ်နှင့် စနစ်တကျရှိဖို့သာ အဓိက"** ဟု ယူဆတော်မူ၏၊ ထို့ကြောင့် ရှိသမျှ တပည့်နှစ်ပါးအား စနစ်တကျ ဖြစ်စေကာ တစ်ချိန်မှာ စာချပေး၍ ကျန်သောအချိန်များမှာ ကျမ်းစာရေးသားခြင်းဖြင့် အချိန်ကို ကုန်လွန်စေလေသည်၊ ဤနည်းဖြင့် တစ်ဝါ ကျွတ်ကြလေပြီ။

## ဒုတိယကမ္ဘာစစ်ကြီးဖြစ်တော့မည်လော?

**ကမ္ဘာစစ်ကြီး ဖြစ်ခဲ့ဖူး၍**

"ဒုတိယကမ္ဘာစစ်ကြီးကတော့ ဖြစ်လာတော့မှာ အမှန်ပဲ, သေချာနေပြီ"ဟူသော ပြောသံတို့ကို စောစောပိုင်းက ခပ်သဲ့သဲ့ ကြားနေခဲ့ရ၏၊ ယခု တဖြည်းဖြည်း ကျယ်လောင်စွာ ကြားလာရသည်၊ အထူးအားဖြင့် ဆရာတော် အရှင်ဇနကာဘိဝံသတို့ ဆရာတပည့်များ အမရပူရ ဂန္ဓာရုံသို့ ရောက်လာ ဝါဆို၍ ဝါကျွတ်ပြီး နောက်ပိုင်းတွင် ကမ္ဘာ့သတင်းတို့သည် ပို၍ ပျံ့လွင့်လာကြသည်။

ဟိုတစ်စု သည်တစ်စု ဝိုင်းဖွဲ့၍လည်း ပြောဆိုဝေဖန်နေကြပြီ၊ ကြောက်ရွံ့သည့် အမူအရာ, စိုးရိမ်သည့် ပုံအသွင်များဖြင့် အချို့က တိုင်ပင်နေကြ၏၊ **"စစ်ကြီး မြန်မာပြည်သို့ ရောက်လာလျှင် ဘယ်လိုလုပ်ကြမည်နည်း"?**

ဟုတ်ပါသည်, ပူပန်စရာပင် ဖြစ်၏၊ တစ်ချိန်တုန်းကလည်း ဤသို့ ကမ္ဘာစစ်ကြီး ဖြစ်ခဲ့ဖူးသည် မဟုတ်လော၊ ကမ္ဘာပေါ်ရှိ နိုင်ငံအားလုံးလိုလိုပင် စစ်ကြီးထဲ ပါဝင်တိုက်ခိုက်ကြ၏၊ (ထိုအခါ ရွာကြီးတစ်ရွာလုံး သို့မဟုတ် ပွဲခင်းကြီးတစ်ခုလုံး ရှုန်းရင်းဆန်ခတ် ရန်သတ်ကြသလို ဖြစ်တော့၏၊) ယင်းစစ်ပွဲကြီးကား ဤဒုတိယကမ္ဘာစစ်ကြီးကို ထောက်၍ "ပထမကမ္ဘာစစ်ပွဲကြီး"ဟု ခေါ်သည်၊ ၁၉၁၄-၁၈ ခုနှစ် အတွင်းက ဖြစ်ခဲ့ကြ၏။

**စစ်ကြီးကြောင့် ရလဒ်များ**

ပထမ ကမ္ဘာ့စစ်ပွဲတွင် ဂျာမဏီ, သြစတြီးယားတို့ကို "ဗဟိုနိုင်ငံများ"ဟု ခေါ်ကြ၍ အင်္ဂလိပ်, ရုရှ, ပြင်သစ်တို့ကို မဟာမိတ်နိုင်ငံများဟု ခေါ်ကြသည်၊ တစ်နွယ်ငင် တစ်စင်ပါ အခြားနိုင်ငံများစွာတို့သည် နီးစပ်ရာ ဆက်နွယ်ရာဘက်သို့ ပါဝင်တိုက်ခိုက်ကြ၏၊ ဥရောပနိုင်ငံများသာမက ပင်လယ်ရပ်ခြားနိုင်ငံများပါ ပါဝင်လာကြသည်၊ လေးနှစ်ပတ်လုံး တစ်ဖက်နှင့် တစ်ဖက် အကြိတ်အနယ် ပစ်ခတ်ကြ၏၊ မီးရှို့ကြ၏၊ သတ်ဖြတ်ကြ၏၊ အသက်စည်းစိမ် အိုးအိမ်များစွာ ပျက်စီး ဆုံးရှုံးကြရ၏၊ သေကွဲ ရှင်ကွဲ အမျိုးမျိုး ကွဲကြရသည်။

သူ့ဘက်နှင့်ကိုယ့်ဘက်, သူ့အုပ်စုနှင့်ကိုယ့်အုပ်စု မီးကုန်ယမ်းကုန် ပစ်ခတ်တိုက်ခိုက် သတ်ဖြတ်ကြ၍ နောက်ဆုံးတွင် မတတ်နိုင်သောအခါမှ ဗဟိုနိုင်ငံများဘက်က အရှုံးပေး လက်နက်ချ စစ်ပြေငြိမ်းရန် တောင်းပန်ကြလေသည်၊ ဤသို့ဖြင့် ၁၉၁၈-ခု နိုဝင်ဘာလတွင် အတိုက်အခိုက်များ ရပ်စဲကြ၍ စစ်ပွဲကြီး နိဂုံးချုပ်လိုက်ကြလေသည်။

ဤသို့လျှင် ကမ္ဘာစစ်ကြီး၏ ရင့်သီးချောက်ချားဖွယ်တွေ, ရင်နင့်ကြေကွဲဖွယ်တွေ တွေ့ကြုံကြားသိထားသော သူတို့က "စစ်"ဆိုလျှင် မကြားချင် မမြင်ချင် ကြောက်ရွံ့ကြ၏၊ ထိတ်လန့်ကြ၏၊ မုန်းတီးနာကြည်းလာကြတော့သည်။

## ကမ္ဘာ့အရှေ့ဖျား အနောက်ဖျား အခြေအနေ

**စစ်မီးခိုးများ ပြန်၍ထလာ**

ပထမကမ္ဘာစစ်ကြီး ငြိမ်းအေးပြီးနောက် အနှစ် ၂၀ လောက်ကြာသောအခါ ၁၉၃၇-ခုနှစ်က စပြီး ကမ္ဘာ့အရှေ့ဖျား၌ ဂျပန်တို့က တစ်စခန်းထလာကြ၏၊ စစ်မကြေညာဘဲ တရုတ်ပြည်ပင်လယ်ကမ်းရိုးတန်းနယ်မြေများကို အတင်းဝင်ရောက်တိုက်ခိုက်၍ သိမ်းပိုက်နေကြသည်။

တစ်ဖန် ကမ္ဘာ့အနောက်ဖျားတွင်လည်း နာဇီပါတီခေါင်းဆောင်သော ဟစ်တလာအစိုးရ ဂျာမဏီတို့က ကုန်းတပ်, ရေတပ်, လေတပ်စစ်အင်အားတွေ အပြည့်အဝဖြင့် ၁၉၃၈-ခုတွင် ဩစတြီးယားနိုင်ငံနှင့် ချက်ကိုစလိုဗက်ကီးယားနိုင်ငံများကို ကျူးကျော်ဝင်ရောက်တိုက်ခိုက်ကြပြန်၏။

ထို့ကြောင့် လှုပ်လှုပ်ရွရွ ဖြစ်လာကြရသည်၊ ကောင်းသောလက္ခဏာများ မဟုတ်ကြချေ၊ ဒုတိယအကြိမ် ကမ္ဘာ့စစ်မီးလျှံကြီး တောက်ဖို့ မီးခိုးကလေးများ တလူလူထလာခြင်းနှင့် တူတော့၏၊ ထို့နောက် ဂျာမနီတို့သည် အတင့်ရဲလာကာ ၁၉၃၉-ခုတွင် ပိုလန်နိုင်ငံတွင်းသို့ ချင်းနင်းဝင်ရောက် တိုက်ခိုက်သိမ်းပိုက်ယူကြပြန်သည်။

ထိုအခါ အင်္ဂလိပ်နှင့်ပြင်သစ်တို့က (ပိုလန်နှင့် စာချုပ်ထားကြသည်ဖြစ်၍) ၁၉၃၉-ခု စက်တင်ဘာလ ၃-ရက် (မြန်မာသက္ကရာဇ် ၁၃၀၁-ခု ဝါခေါင်လဆုတ် ၅-ရက်)နေ့တွင် ဂျာမနီအား စစ်ကြေညာလိုက်သဖြင့် ကမ္ဘာ့အနောက်ပိုင်း ဥရောပ၌ ဒုတိယကမ္ဘာစစ်မီးကြီး စတင်လောင်တော့သည်။

**ကမ္ဘာ့အရှေ့ဖျား စစ်မျက်နှာ**

၁၉၄၀ ပြည့်တွင် ဂျပန်တို့က ပြင်သစ်ပိုင် အင်ဒိုချိုင်းနားကို ဝင်ရောက် သိမ်းပိုက်၏၊ ထို့ကြောင့် တရုတ်နှင့် အမေရိကန်တို့ ဆက်သွယ်သော လမ်းမကြီး ပိတ်ဆို့သွားရလေသည်၊ ဤသည်ကို အမေရိကန်တို့က ကန့်ကွက် ရှုတ်ချ၏၊ သို့သော် ဂျပန်တို့က အရေးမမူလေ၊ ထို့နောက် ဂျပန်နှင့် အမေရိကန်တို့၏ ဆက်ဆံရေးသည် တဖြည်းဖြည်း တင်းမာလာကြ၏။

ကမ္ဘာ့အရှေ့ဖျားတွင် မိမိတို့သာလျှင် လွှမ်းမိုးကြီးစိုးကြမည်ဟူ၍ ဂျပန်တို့က ရည်ရွယ်ထားကြရင်း ရှိသည်၊ ယင်းရည်ရွယ်ချက် အောင်မြင်ဖို့ဆိုလျှင် "ကမ္ဘာ့အရှေ့ဖျားတွင် ဝင်ရောက်နေကြတဲ့ အင်္ဂလိပ် ပြင်သစ် ဒတ်ချ်နှင့် အမေရိကန်တို့ကို မောင်းထုတ်ပစ်ရမည်" ဤသို့ ဂျပန်တို့က သန္နိဋ္ဌာန်ချထားကြ၏။

ဂျပန်တို့သည် "အမေရိကန်နှင့် သဘောကွဲလွဲချက်များကို စေ့စပ်ဆွေးနွေးရန်"ဟု ဆို၍ ဂျပန်အထူး သံတမန် "ရုရုစု" အား အမေရိကန်သို့ စေလွှတ်လိုက်၏၊ ၁၉၄၁-ခု ဒီဇင်ဘာလ ၇-ရက်နေ့တွင် အမေရိကန် နိုင်ငံခြားရေး မင်္ဂလာဟားနှင့် ဆွေးနွေးညှိနှိုင်းနေကြသည်။

"ဂျပန်တို့က ဤသို့ စေ့စပ်ဆွေးနွေးသည်ဆိုသည်ကို အကယ်ပင်လော, ပရိယာယ်ဆင်သလော" မည်သူမျှ မခန့်မှန်းနိုင်ခဲ့ကြချေ။

## ကမ္ဘာကြီးတစ်ခုလုံး မီးဟုန်းဟုန်းစွဲ

**ဒုတိယအကြိမ် ကမ္ဘာစစ်ကြီး**

ထိုအချိန်တွင် "ဟာဝိုင်ယီ"ကျွန်းရှိ အမေရိကန်၏ "ပါးလ်ဟားဘား"ခေါ် ပုလဲဆိပ်ကမ်းရေတပ်စခန်းကြီးနှင့် လေယာဉ်ပျံကွင်းတို့ကို ဂျပန်တို့က စစ်မကြေညာဘဲ ရုတ်တရက်ထ၍ ဗုံးကြဲချလေသည်၊ လေယာဉ်အစင်း ၁၅၀ တို့ဖြင့် အလစ်တွင် ထ၍ တိုက်ခိုက်သဖြင့် အမေရိကန်တို့ အတော်ပင် ထိခိုက်နစ်နာ ဆုံးရှုံးကြရသည်။

ထို့ကြောင့် နောက်တစ်နေ့ ၁၉၄၁-ခု ဒီဇင်ဘာလ ၈-ရက်နေ့(မြန်မာသက္ကရာဇ်၁၃၀၃-ခု နတ်တော်လပြည့်ကျော် ၆-ရက်နေ့)တွင် အမေရိကန်က ဂျပန်အား အတိအလင်း စစ်ကြေညာလေတော့၏။

သို့ဖြစ်၍ ကမ္ဘာ့အရှေ့ဖျားတွင်လည်း ဒုတိယကမ္ဘာစစ်မီးတောက်ကြီး အရှိန်ပြင်းစွာ ဖြစ်ပေါ်လာတော့၏၊ တစ်ဆက်တည်းပင် အင်္ဂလိပ်နှင့် ဒတ်ချ်တို့ကလည်း ဂျပန်ကို စစ်ကြေညာတော့သည်၊ ထိုအခါ တစ်ဖက်မှလည်း ဂျာမနီနှင့် အီတလီတို့က ဂျပန်ဘက်က နေ၍ အမေရိကန်ကို စစ်ကြေညာပြန်၏၊

ထို့ကြောင့် ၁၉၄၁ ခုတွင် စစ်ကြီးသည် တကယ့်ကမ္ဘာစစ်ကြီးအဖြစ်သို့ ရောက်သွားတော့၏၊ ဆွီဒင် ဆွစ်ဇာလန်နှင့် တောင်အမေရိကတိုက်ရှိ နိုင်ငံအချို့မှတစ်ပါး ကျန်ကမ္ဘာ့နိုင်ငံအားလုံး စစ်ကြီးထဲ ပါဝင်တိုက်ခိုက်ကြတော့သည်။

## မြန်မာပြည်သို့ လှိုင်းဂယက်များ ပုတ်ခတ်လာ

**လှုပ်လှုပ်ရွရွ ဖြစ်လာကြရပြီ**

ဤသို့လျှင် ကမ္ဘာ့အနောက်ဖျား ကမ္ဘာ့အရှေ့ဖျားမှ စစ်သတင်းတို့သည် နေ့စဉ်လို လွင့်ပျံနေကြကုန်၏၊ မြန်မာပြည်သို့လည်း လွင့်ပျံရောက်လာကြသည်၊ နေ့စဉ်လိုပင် အသည်း တထိတ်ထိတ် ရင်တဖိုဖို ကြားနေကြရ၏၊ ထိုအခါ မနေတတ် မထိုင်တတ် လှုပ်လှုပ်ရွရွ ဖြစ်လာကြရသည်၊ နေရာတိုင်းလိုလို အိမ်တိုင်းလိုလို ဗုံးခိုကျင်းများ တူးကြတော့သည်၊ စစ်အတွင်းမှာ စားသောက်ဖို့ရန် ရိက္ခာများ စုဆောင်းကြတော့သည်၊ ကမ္ဘာကြီး တုန်လှုပ်လာသည်နှင့်အမျှ ကမ္ဘာ့လူသားတို့လည်း လှုပ်ရှား၍ အငြိမ်မရ ဖြစ်ကြရတော့သည်။

ဤအခြေအနေကို ဆရာတော် အရှင်ဇနကာဘိဝံသတို့ ဆရာ တပည့်တစ်စုလည်း တွေ့မြင်ရင်ဆိုင် နေကြရလေပြီ၊ အမရပူရသို့ ရွှေ့ပြောင်းလာသော ၁၃၀၃-ခု ဝါကျွတ်အပြီး နတ်တော်လ (၁၉၄၁-ခု ဒီဇင်ဘာလ)ထဲတွင် တွေ့မြင် ရင်ဆိုင်နေကြရလေပြီ။

မဟာဂန္ဓာရုံကျောင်းတိုက်ထဲတွင် သက်တော်သိက္ခာတော် အကြီးဆုံး အတိသုခဆရာတော်ဘုရားကြီးနှင့်တကွ အရှင်ဇနကာဘိဝံသတို့ ဆရာတပည့်တစ်စုတို့ပါ ဖြစ်ပေါ်လာသော အခြေအနေကို ဉာဏ်ဖြင့် သုံးသပ်, သတိဖြင့် မလပ်စေဘဲ အကဲခတ်နေတော်မူကြရသည်။

စစ်ကြီး ဖြစ်လာလျှင် အရပ်သူ အရပ်သားများ အနေဖြင့် ကြောက်ရွံ့ တုန်လှုပ်တတ်ကြသည်မှာ ဓမ္မတာ ဖြစ်၏၊ မကြောက်ရွံ့ဘဲ နေမည်လော၊ အပြစ်မဲ့သော အရပ်သူ အရပ်သားများ သေကြေကြရ၏၊ အသက် စည်းစိမ် အိုးအိမ်များကို စတေးကြရ၏၊ မိသားစုများ ရင်နင့်ကြေကွဲဖွယ်ရာ သေကွဲ ရှင်ကွဲ တွေ့ကြုံကြရ၏၊ ထို့ကြောင့် တုန်လှုပ်ကြောက်ရွံ့ကြရသည်။

မြန်မာပြည်အဖို့ကား "ဤစစ်ပွဲကြီးကိုပင် အကျိုးရှိစွာ အသုံးချကြရမည်၊ မိမိတို့ တိုင်းပြည် လွတ်လပ်ရေးအတွက် အချက်ပိုင်ပိုင် အသုံးချတတ်ကြရမည်" ဟု တွက်ဆထားကြ၏။

ထို့ကြောင့် အမြော်အမြင်ရှိသော ခေါင်းဆောင်ပိုင်းများ၏ အစီအစဉ်အရ မြန်မာပြည်မှ ရဲဘော်သုံးကျိပ်တို့သည် လွန်ခဲ့သော ၃-နှစ်လောက်ကပင် စစ်ပညာ သင်ကြားရန် ဂျပန်ပြည်သို့ လျှို့ဝှက်စွာ ရောက်နေကြ၏။

**စွန်ရဲသုတ်သည့်ပမာ**

ဤကဲ့သို့ ဒုတိယ ကမ္ဘာစစ်ကြီးဖြစ်လာလိမ့်မည်ကို ဂျပန်တို့သည် ကြိုတင်တွက်ဆထားပြီး ဖြစ်ကြ၏၊ ထို့ကြောင့် အစစအရာရာ အသင့်အနေအထား ပြည့်စုံအောင် ပြင်ဆင်ထားပြီး ဖြစ်ကြသည်၊ သို့ဖြစ်၍ "ပါးဟားဘား"ကို ဗုံးကြဲသောနေ့မှာပင် ခြေသွက်လက်သွက်ဖြင့် ဂျပန်တပ်များသည် ဂူအမ်ကျွန်း, စင်္ကာပူနှင့်ဖိလစ်ပိုင်ကျွန်းရှိမြို့ကြီးများကို ဆက်တိုက်အတင်းဝင်၍ ဗုံးကြဲတိုက်ခိုက်ကြ၏၊ ရဲတင်းကြလှသည်၊ လက်နက်ကိုင်ခြေလျင်တပ်များကမူ အင်ဒိုချိုင်းနားမှ ယိုးဒယား(ထိုင်း)အတွင်းသို့ အတင်းဝင်ရောက် တိုက်ခိုက်ကြ၏၊ ယိုးဒယားတို့သည် အနည်းငယ်မျှသာ ခုခံပြီးလျှင် လက်နက်ချလိုက်ကြသည်။

ထိုနေ့မှာပင် ဂျပန်တပ်များသည် မာလာယုကျွန်းဆွယ်ထဲသို့လည်း အတင်းထိုးဖောက် ဝင်ရောက်ကြပြန်၏၊ ထိုမှ တစ်ဆင့် ဆက်လက် တိုက်ခိုက်ကြရာ ၁၉၄၁-ခု ဒီဇင်ဘာလ ၂၅- ရက်နေ့တွင် ဟောင်ကောင်မြို့ကြီး ကျဆုံးသွားတော့သည်။

ဂျပန်တို့သည် သွေးဆူနေကြ၏၊ ဆူနေသောသွေး, ပူနေသောသွေးကို အအေးမခံဘဲ စွန်ရဲပမာ ဆက်လက်တိုက်ခိုက်ကြပြန်ရာ ၁၉၄၂-ခု ဖေဖော်ဝါရီလ ၁၅-ရက်နေ့တွင် နာမည်ကြီး စင်္ကာပူခံတပ်ကြီးကို အပိုင်စီးလိုက်နိုင်တော့၏၊ စင်္ကာပူခံတပ်ကြီး ကျဆုံးသွားလေပြီ။

စစ်မီးခိုးတို့သည် အနှံ့အပြား တလူလူဖြစ်နေကြကုန်၏၊ စစ်မီးလျှံတို့သည် ရဲရဲပြောင်ပြောင် တောက်လောင်လာကြကုန်၏၊ စစ်မီးတောက်ကူစက်ခြင်းကလည်း မြန်ဆန်လွန်းလှသည်။ ။

**ရန်ကုန်မြို့သို့ ဆိုက်ရောက်လာ**

ယိုးဒယားနှင့် မာလာယုကျွန်းဆွယ်တို့မှ ဂျပန်တပ်တို့သည် (ဘီ-အိုင်-အေ)ရဲဘော်သုံးကျိပ် မြန်မာတို့နှင့် တွဲဖက်၍ မြန်မာပြည်သို့ ဆက်လက်ချီတက်တိုက်ခိုက်လာကြရာ ၁၉၄၂-ခု မတ်လ ၈-ရက် (မြန်မာသက္ကရာဇ် ၁၃၀၃-ခု တပေါင်းလဆုတ် ၈-ရက်နေ့)တွင် ရန်ကုန်မြို့ကြီး ကျဆုံးလေ၏၊ အင်္ဂလိပ်တို့သည် ကစဉ့်ကလျား ပြေးလွှားကြရကုန်၏။

ဂျပန်တို့ လေတပ်မှ လေယာဉ်အစင်း ၉၀ ခန့်တို့သည် ရန်ကုန်မြို့ကြီးပေါ်တွင် ငှက်အုပ်ကြီးပျံဝဲသကဲ့သို့ ပျံဝဲပြီးလျှင် စတင်၍ ဗုံးတွေကြဲချရာ လူပေါင်းများစွာ အသက် စည်းစိမ် အိုးအိမ်တွေဆုံးရှုံးကြရသည်၊ သေကြေပျက်စီးရကုန်၏၊ ရန်ကုန်မြို့ကြီးသည်လည်း မီးလျှံထဲတွင် ဝါးမျိုခံနေရသည်။

ထိုအခါ မီးဘေး မီးလျှံ ဗုံးဆန် သေနတ်ဘေးတို့မှ မလွတ်မြောက်သေးသော ရန်ကုန်မြို့သူ မြို့သားများ, အောက်ပိုင်းမှ စစ်ပြေးဒုက္ခသည်များသည် အထက်ပိုင်းသို့ စုလာကြကုန်၏၊ အထူးအားဖြင့် မန္တလေး, အမရပူရ, စစ်ကိုင်း, မုံရွာ စသည်များသို့ လွတ်အံ့နိုးနိုး စုပြုံလာကြသည်။

**ဂျပန်တပ်များ အောင်ပွဲခံနေ**

ဂျပန်တို့၏ ကုန်းတပ် ရေတပ် လေတပ်တို့သည် ၁၉၄၁ - ခု ဒီဇင်ဘာလမှ ၁၉၄၂-ခု မေလအထိ ခြောက်လအတွင်းမှာ အရှေ့တောင်အာရှနှင့် ပစိဖိတ်သမုဒ္ဒရာအတွင်းရှိ အင်္ဂလိပ်, ပြင်သစ်, ဒတ်ချ်နှင့် အမေရိကန်တို့ပိုင်သော ကိုလိုနီနယ်အားလုံးကို တိုက်ခိုက်သိမ်းယူလိုက်နိုင်၏၊ ထို့ကြောင့် ထိုအချိန်တွင် တက်ကြွား မာန်ဝင့်စွာ ဂျပန်တို့ အောင်ပွဲခံနေကြသည်၊ ဘုန်းမီးနေလ တောက်ပနေကြကုန်၏။

ထိုအချိန်က အနောက်ဥရောပ စစ်မျက်နှာတွင် အင်္ဂလိပ်, ပြင်သစ်, ဒတ်ချ်နှင့် ရုရှား စသော

အနောက်နိုင်ငံသားတို့သည် နာဇီဂျာမနီ၏ ထိုးစစ်ဒဏ်ကို အလူးအလဲ ခံနေကြရသဖြင့် ကမ္ဘာ့အရှေ့ဖျားနှင့် ပစိဖိတ်စစ်မျက်နှာတို့တွင် ဘာမျှ မတတ်နိုင်ချေ၊ လည်စင်း၍ ခံနေကြရသည်၊ ဤအခွင့်ကောင်းကို သိထားကြသော ဂျပန်တို့ကလည်း ဖင့်နွဲ့ဆိုင်းနေခြင်း မရှိ၊ အချိန်ကို တန်ဖိုးထားကာ အခွင့်ကောင်းကို လက်မလွတ်စေဘဲ မိမိတို့ စစ်မျက်နှာတွင် သွက်လက်စွာ တိုက်ခိုက်လျက် ရှေ့သို့ ချီလျက် ရှိကြသည်။ ဤနည်းအားဖြင့် မြန်မာပြည်အထက်ပိုင်းသို့ပါ စစ်ဦးလှည့်လာတော့သည်။

## စစ်ဦးကာလအတွင်း ဘေးကင်းရာအောင်းခို

**ဗုံးခိုခဲ့ရာ မြို့ဆယ်ရွာ**

ဒုတိယကမ္ဘာစစ်မီးတောက်ကြီးသည် တဟုန်းဟုန်းဖြင့် အရှိန်ပြင်းစွာ ကမ္ဘာအနောက်ဖျား အရှေ့ဖျားတို့၌ တောက်လောင်နေရာမှ ယခုအခါ မြန်မာပြည်သို့ပါ ကူးစက် ရောက်လာ၏၊ မြန်မာပြည်တွင်လည်း အောက်ပိုင်း၌ လောင်နေရာမှ ယခု အထက်ပိုင်းသို့ပါ ဆက်လက်လောင်လာလေပြီ၊ ကူးစက်ခြင်းကား တောမီးပမာ မြန်ဆန်လွန်းလှသည်။

၁၃၀၃-ခုနှစ် သီတင်းကျွတ်စတွင် အမရပူရ ဂန္ဓာရုံတိုက်သို့ စာအုပ်တာဝန်ခံ (အစ်မလေးဒေါ်) **ဒေါ်စိန်ရှင်**တို့ မန္တလေးမှ ပြောင်းရွှေ့လာကြသည်၊ မောင်ငယ်ကလေး၊ **မောင်သောင်း**လည်း ပါလာ၏၊ ဆရာတော်ထံမှာ ကိုရင်ဝတ်နေသည်။

နတ်တော် ပြာသိုလလောက်တွင် အနယ်နယ် အရပ်ရပ်မှ **စစ်သတင်း** စစ်အသံတို့ကို အတော်များများကြားနေခဲ့ကြရပြီ၊ ထိုသို့ ကြားနေခဲ့ရာမှ ယခုအခါ အထက်အညာသို့ စစ်ပြေးဒုက္ခသည်များပင် စုပြုံပြေးလာနေကြပြီ။

ထိုအချိန်တွင် (အစ်မလေး) ဒေါ်စိန်ရှင်နှင့် မောင်အကြီး **မောင်ကျော်**တို့က ကိုယ်နှင့် ဆက်နွယ်ရာ ဘေးရန်လွတ်မည်ထင်ရာ စဉ့်ကိုင်အနီးက ဆီဆုံ **ဆယ်ရွာ**သို့ ပြောင်း၍ ဗုံးခိုအောင်းကြ၏၊ ဆယ်ရွာသည် မန္တလေး ကျောက်ဆည်သွား ကားလမ်းမကြီး၏ဘေး ပလိပ် ချည်မျှင်စက်အနီးတွင် တည်ရှိ၏။

**အခြေအနေမှာ ပြောင်းလဲလာ**

မောင်သောင်းလည်း သုံးလလောက်သာ ကိုရင် ဝတ်ပြီးနောက် လူထွက်၍ ဆယ်ရွာသို့ လိုက်သွားတော့သည်၊ ဒေါ်စိန်ရှင်တို့မောင်နှမတစ်စုသည် ဆယ်ရွာမှ ဆရာမကြီး **ဒေါ်မှို**တို့ တိုက်၌ တည်းခို နေထိုင်ရ၏။

တစ်အိမ်သားလုံးက ဖော်ရွေစွာ စောင့်ရှောက်ပြုစုကြသည် ဟူ၏၊ ထို့နောက် အမရပူရ၌ အခြေအနေမှာ တဖြည်းဖြည်း ပိုမို၍ စိုးရိမ်စရာ ဖြစ်လာသည်၊ လှုပ်လှုပ်ရွရွနှင့် အငြိမ်မရ ဖြစ်လာကြ၏၊ ကြောက်ရွံ့ တုန်လှုပ်လာကြတော့သည်။

ထို့နောက်ပိုင်းရက်များတွင် အောက်အရပ်ဒေသများမှ ပြေးလာကြသော စစ်ပြေးဒုက္ခသည်များပါ တဖြည်းဖြည်း များလာသဖြင့် မကြာမီ အန္တရာယ်ရောက်လာနိုင်သည်၊ တပည့်များအတွက်ပါ ထည့်၍ တွေးရ၏၊ ဆိုင်ရာ မိဘများကလည်း စိတ်မအေးဖြစ်ကြပေလိမ့်မည်၊ ဤသို့ တွေး၍ ဦးဇိနောရသနှင့် ဦးသြဘာသ နှစ်ပါးကို ပြန်၍ လွှတ်တော့သည်။

ထိုအခိုက်တွင် ပလိပ်ရဟန်းအမ ဒေါ်ပု၏မောင် ဆယ်ရွာသူကြီး **ဦးဆွဲ** လာ၍ ပင့်သဖြင့် ဆရာတော် အရှင်ဇနကာဘိဝံသကလည်း ဗုံးခိုရန် ဆယ်ရွာသို့ လိုက်ပါသွားခဲ့သည်၊ အတိသုခ ဆရာတော်ကြီးတို့ကား ဂန္ဓာရုံကျောင်းတိုက်မှာပင် နေရစ်တော်မူခဲ့ကြ၏။

**မိသားစုများ စုမိကြသလို**

ဆယ်ရွာသို့ ရောက်သောအခါ ဆရာတော် အရှင်ဇနကာဘိဝံသ က "တိတ်ဆိတ်ချမ်းမြေ့တဲ့နေရာမှာ စာရေးပြီး နေချင်တယ်"ဟု အမိန့်ရှိသဖြင့် ဆယ်ရွာသူကြီး (ဦးရိုးတော် ဦးဆွဲ)က ကျောင်းနေရာ ရွေးရတော့၏၊ ဆယ်ရွာသည် ရေမြေကောင်း၏၊ စိုက်ခင်း ပျိုးခင်းများ အောင်မြင်၍ သီးနှံ စပါး ဖွံ့ဖြိုး၏၊ သစ်ကြီး ဝါးကြီးများ ပေါများသည်၊ ရွာ၏ ပတ်ဝန်းကျင်တွင် သရက် ပိန္နဲ မရမ်း သစ်တိုစသော သစ်ပင်ကြီး ဝါးပင်ကြီးတို့ဖြင့် အုံ့ဆိုင်း ညို့မှိုင်းလျက် နေသည်။

ဦးရိုးတော် ဦးဆွဲက ထိုသစ်ပင်ကြီးမျိုးတွေ ပေါများသော ရွာအနောက်ဘက်က ဥယျာဉ်ထဲမှာ တဲကျောင်းကလေးတစ်ဆောင် ဆောက်ပေး၏၊ သုံးပင်လေးခန်း ဝါးသက်ငယ်မိုး ဝါးထရံကာ ဝါးကြမ်းခင်းဖြင့် တိတ်ဆိတ်ငြိမ်းချမ်းခြင်း ရှိလှပါဘိသည်၊ (ယင်းကျောင်းကလေးကား ဘုန်းတော်ကြီး အဆက်ဆက် ထပ်မံပြုပြင်၍ စောင့်ရှောက်လာခဲ့ကြရာ ယခုတိုင် ရှိပါသေး၏။)

ဆရာတော် အရှင်ဇနကာဘိဝံသ ရောက်လာကတည်းက သူကြီးကတော် **ဒေါ်လှရွှေ**မှာလည်း ဝမ်းသာမဆုံး ရှိလှသဖြင့် ဆွမ်းကွမ်းဝေယျာဝစ္စအတွက် မလစ်လပ်ရအောင် အမြဲစီမံနေတော့သည်၊ သူကြီးက ကြည်ညိုသလို သူကြီးကတော်ကလည်း ရိုသေလှ၏၊ လေးစား၏၊ တန်ဖိုးထား၏။

**အစ်ကိုကြီးပမာ လေးစားကြရ**

သူကြီးဦးဆွဲသည် ပလိပ်ရဟန်းအမ ဒေါ်ပု၏မောင် (အစ်ကို)တော်စပ်၏၊ ထို့ကြောင့် သမီးမျိုးနှင့်ကား ဆရာတော်နှင့် မောင်နှမလို တော်စပ်နေကြသည်၊ ထို့ကြောင့်လည်း သမီးများဖြစ်ကြသော **အညို, မခင်မြ, မတင်အေး, မစုန်း**တို့ကဆိုလျှင် အစ်ကိုကြီးတစ်ယောက် အခုမှ အဝေးက ပြန်ရောက်လာသည့်ပမာ လေးစားစွာ ဝေယျာဝစ္စပြုလုပ်ကြ၏၊ အကယ်ပင် အစ်ကိုကြီး အရင်းလို မှတ်ထင်နေကြသည်၊ အမေ အဖေတို့အပြင် ဆုံးမမည့်သူ ယခုမှ အစ်ကိုကြီး တစ်ယောက် တိုး၍ လာသလိုလည်း ဖြစ်သည်၊ လေးလည်း လေးစားကြရ၏။

တစ်နေရာက ဒေါ်မိုတို့ တိုက်တွင် (အစ်မလေး) ဒေါ်စိန်ရှင်တို့ မောင်နှမတစ်စုကလည်း ရောက်နှင့်နေကြပြီ၊ ဦးဆွဲ ဒေါ်လှရွှေတို့ကလည်း မကြာ မကြာ သွား၍ အားပေးကြသည်၊ ယခုလို မငြိမ်မသက် ခေတ်ပျက်ကြီးထဲတွင် မိသားစုတွေ ယခုမှ စုမိကြသလို ဖြစ်၍ အားတက်နေကြတော့သည်။

**နေ့စဉ်လုပ်ငန်း မပြတ်လပ်ခဲ့**

ဆရာတော် အရှင်ဇနကာဘိဝံသ သည် ... အလကား မနေတတ်၊ အလုပ် လုပ်နေရမှ ကျေနပ်၏၊ ငယ်စဉ်ကလေးဘဝကပင် "အလုပ်မလုပ်ဘဲ ထမင်းစားရသောနေ့သည် တာဝန်မကျေ"ဟု ထင်ခဲ့၏၊ ထို့ကြောင့် နားခွင့်ပေးသော ဥပုသ်နေ့များ၌ပင် "ထမင်းစားခါနီးမှာ အနည်းငယ် စာကို သွား၍ ကျက်လိုက်သေးသည်" ဟု ဆရာတော်ကိုယ်တိုင် အမိန့်ရှိဖူး၏။

"ထိုသို့ အလုပ်တစ်ခုခု လုပ်ပြီး၍ စားရမှ ဘဝင်ကျသည်, စိတ်ထဲ ကျေနပ်အားရသည်"ဟုလည်း ဆက်လက် မိန့်တတ်သေး၏၊ ဆရာတော်၏ဝါဒမှာ "လုပ်အားနှင့်လုပ်ခ" ညီမျှဒွန်တွဲနေမှ ကျေနပ်ပုံရ၏၊ တစ်ခုခုက ပိုလျှံ လွန်ကဲနေလျှင် သို့မဟုတ် အတိုင်းအတာ အဆင့်ကို မမီလျှင် ကျေနပ်ပုံ မရချေ။

ထို့ကြောင့် ယခု အေးချမ်းလှသော သူ၏ တဲကျောင်းကလေးမှာ ရေးလက်စ "ရူပသိဒ္ဓိဘာသာဋီကာ"ကျမ်းကို သူတစ်ပါးတည်း ဆက်လက် ရေးနေသည်၊ လုပ်ငန်းအလျဉ် မပြတ်ခဲ့၊ ဆရာတော်၏ စိတ်မှာ ဘယ်ခေတ် ဘယ်ကာလနှင့် ကြုံကြုံ အမြဲတမ်း သာသနာပြုစိတ်ဓာတ်ထားကြောင်း ဤလုပ်ရပ်ဖြင့်ပင် သိသာနိုင်ပါသည်။

နောက်ပိုင်းတွင် ဦးဗိနောရသနှင့်ဦးသြဘာသတို့လည်း လိုက်လာကြသဖြင့် သူတို့အားလည်း စာပေပို့ချပေးပြန်သည်၊ အလွန် ဖွံ့ပါပင်၊ ထိုစဉ်က ချပို့ပေးသော စာဝါမှာ သီလက္ခန် ပါဠိတော် အဋ္ဌကထာနှင့် ဋီကာသစ်တို့ ဖြစ်ကြ၏။

နှစ်ပါးတည်းပင်ဖြစ်သော်လည်း စာဝါ ပို့ချပေး တော်မူသည်၊ စာလိုက်နည်းပါး၍ ဆရာတော် စိတ်အားမပျက်၊ အရေအတွက်ထက် အရည်အချင်းကိုသာ တန်ဖိုးထားသည် မဟုတ်ပါလော၊ အတော်ကြာသောအခါ ဆယ်ရွာ၏ တောင်ဘက် ကောက်ရိုးပုံရွာမှ **မောင်တင်အုံး**သည် ဆရာတော့်ထံသို့ လာ၍ ကိုရင်ဝတ်၏၊ ဘွဲ့မည်မှာ **"ရှင်နာရဒ"**ဟု တွင်သည်။

ထို့နောက် တစ်ဖန် စဥ့်ကိုင်မြို့နယ် မြောင်းဆုံကြီးရွာမှ **မောင်ဘရင်**လည်း ကိုရင်ကြီး လာ၍ ဝတ်၏၊ **"ကိုရင် နန္ဒိယ"**ဟု တွင်သည်။

## အထက်မြန်မာပြည်သို့ စစ်မီးတောက်များကူးစက်လာ

**အောက်ထက်အနံ့ စစ်မီးများ**

စစ်မီးလျှံ စစ်မီးတောက်ကြီးများသည် မြန်မာပြည် အောက်ပိုင်းတွင် တောက်လောင်နေရာမှ ယခုအခါ အထက်ပိုင်းသို့ ရောက်လာလေပြီ။

၁၃၀၃-ခု တပေါင်းလထဲတွင် မန္တလေး နန်းတွင်းရှိ "မြန်မာပြည်အသင်းတိုက်"ကို ဂျပန် လေယာဉ်တို့က လာရောက်ဗုံးကြဲ၏၊ မန္တလေးမြို့ကြီးသည် တုန်လှုပ်ချောက်ချားသွားရသည်၊ လှုပ်လှုပ်ရွရွ ဖြစ်လာကြပြီးလျှင် မိမိတို့ စပ်ရာ နွယ်ရာ အစွန်အဖျား ဇနပုဒ်ကျေးရွာများသို့ ပြေးလွှား ခိုအောင်းကြရ၏။

ထို့နောက်တစ်ဖန် ၁၃၀၃-ခု နှောင်းတန်ခူး လဆုတ် ၄-ရက် (ခရစ် ၁၉၄၂-ခု ဧပြီလ ၃-ရက်)နေ့တွင်ကား မန္တလေးမြို့ကြီးကို အကြီး အကျယ် ဗုံးကြဲချတော့၏။

တစ်မြို့လုံးနီးပါး မီးဝါးခံရပြီးလျှင် တဟုန်းဟုန်း တောက်လောင်လေတော့သည်၊ သေကြေပျက်စီးမှုလည်း များလှ၏၊ မြန်မာ့ယဉ်ကျေးမှု အနုပညာ လက်ရာမြောက်သော အဆောက်အအုံများ ပါသွားကြရတော့၏။

ထိုနှစ်က ဧပြီလ ၁၅-ရက် (ကဆုန်လဆန်း ၂-ရက်)နေ့သည် ၁၃၀၄-ခုနှစ်အဖြစ် နှစ်သစ်ကူးသော မြန်မာနှစ်ဆန်း ၁-ရက်နေ့ ဖြစ်၏၊ ထိုနှစ်သင်္ကြန်တွင်းမှာ ဆရာတော်အရှင်ဇနကာဘိဝံသတို့ ဆရာ တပည့် တစ်စုသည် ဆယ်ရွာ၌ သီတင်းသုံးလျက် ရှိကြ၏။

ဂျပန်တို့သည် သွေးပူနေကြသည့်အားလျော်စွာ အရာရာတွင် ဖျတ်လတ်၏၊ လျင်မြန်ကြ၏၊ မြန်မာပြည် အထက်ပိုင်းကို တစ်ခုပြီး တစ်ခု တိုက်ခိုက် ဖျက်ဆီး မီးရှို့လာခဲ့ကြရာ ၁၃၀၄-ခုနှစ် ကဆုန်လပြည့်ကျော် ၂-ရက်နေ့ (၃၀-၄-၄၂)နေ့တွင်ကား မန္တလေးမြို့ကြီးကို အင်္ဂလိပ်တို့ လက်လွှတ်ရသောနေ့ပင် ဖြစ်၏။

အင်္ဂလိပ်တို့သည် မန္တလေးမြို့ကြီးကို လုံးဝ လက်လွှတ်လိုက်ရပြီးနောက် စစ်ကိုင်းဘက်သို့ ဆုတ်ခွာ ထွက်ပြေးကြပြီးလျှင် စစ်ကိုင်းတံတားကြီးကို ချိုးပစ်ခဲ့ကြလေသည်။

အင်္ဂလိပ်တို့ တစ်စခန်း ရပ်လေ၏။ ။

## ဂျပန်အုပ်ချုပ်ရေး

**ရွှေကညစ်ဖြင့် ရေးတော့မည်**

အင်္ဂလိပ်တို့ ဆုတ်ခွာပြေးသော နေ့မှာပင် ... ဂျပန် တပ်ဦးက မန္တလေးမြို့ကြီးကို သိမ်းပိုက်လိုက်တော့၏၊ ထို့နောက်ရက်များတွင် မန္တလေးမြို့တော်ကြီး ပြန်လည်စည်ကားလာရေးအတွက် မြို့နှင့်နယ် အုပ်ချုပ်ရေးအဖွဲ့အစည်းများ ဖွဲ့စည်းပြီးလျှင် မြို့ပြလုံခြုံရေး စသည်တို့ကို စတင်ဆောင်ရွက်ကြတော့သည်၊ ထိုသို့ ပြန်လည် ထူထောင်ရေးများ ပြုလုပ်လာသောအခါတွင် ထွက်ပြေး တိမ်းရှောင်နေခဲ့ကြသော မြို့လူထုများသည် တစ်စ တစ်စနှင့် မြို့တွင်းသို့ ပြန်လည် ပြောင်းရွှေ့ ဝင်လာကြတော့သည်၊ ကိုယ့်အိမ်နေရာ ကိုယ်ပြန်၍ ရှာကြရတော့သည်။ ၁၃၀၄-ခုနှစ် နယုန်လဆန်း ၈-ရက် (၂၁-၅-၄၂) နေ့၌ကား မန္တလေးမြို့ သံတဲကျောင်းကြီး၌ မြို့လုံးကျွတ်အစည်းအဝေးပွဲကြီး ကျင်းပကြ၏၊ ယင်းအစည်းအဝေးပွဲ၌ "အင်္ဂလိပ်မိစ္ဆာတို့ကို မြန်မာပြည်မှ ပြေးကုန်အောင် မောင်းထုတ်ပေးသဖြင့် ဂျပန်ဘုရင်မင်းမြတ်အား ကျေးဇူးတင်ကြောင်း" အဆိုကိုတင်၍ ပရိသတ်အားလုံး ထောက်ခံသည့်အနေဖြင့် ဩဘာပေးကြသည်၊ ထိုအစည်းအဝေးပွဲကြီး၌ ဒေါက်တာဘမော် တက်ရောက်၍ မိန့်ခွန်းပြောခဲ့၏၊ ယင်းမိန့်ခွန်း၌ ဒေါက်တာ ဘမော်ကို ဦးစီးစေ၍... "မြန်မာပြည်အုပ်ချုပ်ရေး စီစဉ်မှုကော်မတီ"ကို ဖွဲ့စည်းစေခဲ့သည်၊ ထို့နောက် ကြိုတင်ပြင်ဆင်မှုကိစ္စများကိုလည်း တစ်ဆက်တည်း ဆောင်ရွက်စေသည်။

စီစဉ်မှုများ ပြီးစီးသောအခါ ၁၃၀၄-ခုနှစ် ဒုတိယဝါဆိုလဆုတ် ၅-ရက် (၁၉၄၂-ခုနှစ် ဩဂုတ်လ ၁-ရက်)နေ့တွင် "မြန်မာပြည်အစိုးရသစ်"ဟူ၍ ဖွဲ့စည်းပြီးနောက် ယင်းအစိုးရအဖွဲ့သစ်က စတင်အုပ်ချုပ်သည်၊ ယင်းအစိုးရအဖွဲ့ကို ဒေါက်တာ ဘမော်က ဦးဆောင်၏၊ ဤသို့လျှင် သမိုင်းရာဇဝင် စာမျက်နှာသစ်တစ်ရပ် စတင် ဖွင့်လိုက်ကြတော့သည်။

## ဂျပန်ခေတ် အုပ်ချုပ်ရေးကာလ

**အုပ်ချုပ်ရေးပြောင်း၍လာ**

၁၃၀၄-ခုနှစ် နယုန်လထဲတွင် ...ဂျပန်စစ်သေနာပတိကြီး "ဂျင်နရယ် အီးဒါး"၏အစီအစဉ်အရ ဒေါက်တာဘမော်ကို ဦးစီးစေ၍ မြန်မာပြည်အုပ်ချုပ်ရေး စီစဉ်မှုကော်မတီကို ဖွဲ့စည်းစေလိုက်ပြီဟု ကြားကြရကတည်းက လူတို့သည် အားတက်လာကြကုန်၏၊ လှုပ်လှုပ်ရွရွ ခေါင်းပြူလာကြကုန်၏၊ "တိုင်းပြည်ကြီး အေးချမ်းတော့မည်" ဟုလည်း ဝမ်းသာအားရ ပြောဆိုနေကြပြီ၊ စစ်ဘေးကြောင့် ငြိမ်းချမ်းရေးကို လိုလားနေကြသည် မဟုတ်တုံလော။

ကျေးလက်တောရွာတို့၌ ပြေးလွှား ပုန်းခိုနေကြသော သူတို့လည်း ကိုယ့်မြို့ ကိုယ့်ရွာ ကိုယ့်အိမ်ရာကို ပြန်လာနေကြကုန်ပြီ၊ တစ်ဖန် မြို့ကြီးများမှခွာ၍ သင့်တော်ရာအရပ်များသို့ သွားရောက် ခိုအောင်းနေတော်မူကြသော သံဃာတော်များလည်း ကိုယ့်ကျောင်း ကိုယ့်ကန်များရှိရာ မြို့ကြီးများသို့ တရွေ့ရွေ့ ပြန်လာနေတော်မူကြပြီ။

ကြေးစည် ခေါင်းလောင်း အုံးမောင်းသံတို့ကိုလည်း ပြန်လည် ကြားနေကြရပြီ၊ တိတ်ဆိတ်သွားခဲ့သော စာအံသံ စာချသံတို့ကိုလည်း ပုံမှန်အတိုင်း ပြန်ကြားနေကြရပြီ၊ ဘုရား ပုထိုး စေတီထွတ်ဖျားတို့မှ ဆည်းလည်းသံ မြိုင်မြိုင်ကိုလည်း သာယာအေးချမ်းစွာ ကြားလာကြရသဖြင့် ဗုဒ္ဓဘာသာဝင်တို့ နှလုံးမှာ ရွှင်ပြုံးအားရ ကြည်နူးစွာ အေးချမ်းမှုအရသာကို ခံစားကြရလေသည်။

**ဘဝသံသရာ ဖန်ခါဆုံကွဲအနဲနဲ**

ဆရာတော် အရှင် ဇနကာဘိဝံသတို့ ဆရာတပည့်တစ်စုတို့လည်း ဆယ်ရွာမှ ပြာသို၊ တပို့တွဲ၊ တပေါင်း၊ တန်ခူး၊ ကဆုန်၊ နယုန်လတို့ ကုန်အောင်နေကြ၍ ဝါဆိုလထဲကျမှ ဆယ်ရွာက ညီအစ်ကို မောင်နှမ မိသားစုများနှင့် ခွဲပြီးလျှင် အမရပူရသို့ ပြန်လာခဲ့ကြတော့သည်၊ ဘဝသံသရာဟူသည် (ဘဝသံသရာထဲ၌ တွေ့ကြုံကြရပုံများသည်) ဤသို့ ဤနှယ်များပေလောဟု တွေးတောစရာပင် ဖြစ်တော့၏၊ တွေ့လိုက်ကြ၊ ဆုံလိုက်ကြ၊ ကြုံလိုက်ကြ၊ ကွဲလိုက်ကြ၊ ငိုပွဲဆင်လိုက်ကြနှင့် ဘဝသံသရာ ခရီးတာကြီးကား မဆုံးနိုင်အောင် ရှိချေသည်တကား။

ဤသဘာဝကို ဤဒုတိယကမ္ဘာစစ်ကြီးက ပီသအောင် ပုံဖော်ပေးသလို ဖြစ်တော့၏၊ ရှင်တော်ဗုဒ္ဓကမူ ရှေးမဆွကပင် ဟောပြထားတော်မူသည်။ *

"ဘဝသံသရာ ခရီးတာကြီးကရှည်လွန်းလှသည်၊ ဤခရီးရှည် ကာလကြီး အတွင်းမှ တစ်ခါမဟုတ်တစ်ခါ၊ တစ်ကွေ့မဟုတ် တစ်ကွေ့ တွေ့ကြ၊ ဆုံကြ၊ ကွဲလိုက်ကြနှင့် အမိ အဖ ညီ အစ်ကို မောင် နှမ ဆွေမျိုး သားချင်း မတော်စပ်ဖူးသူ ဟူ၍ မရှိသလောက်ပင် ဖြစ်တော့သည်၊ တွေ့ကြ ဆုံကြ ကြုံကြတုန်းမှာ ပြုံးရ ရွှင်ရ ကြည်နူးရသော်လည်း ကွဲကြ ကွာကြ ဝေးကွာကြရလျှင် ဆွေးရ ဝေးရ ငိုရှိုက်ကြရပြန်တတ်သည်၊ ဆွေးခဲ့ရပေါင်းလည်း များခဲ့ပြီ၊ ဝေးခဲ့ရပေါင်းလည်း များခဲ့ပြီ၊ ငိုရှိုက်ခဲ့ရပေါင်းလည်း များခဲ့ပြီ၊ သတိဖြစ်ဖို့ သင့်ချေပြီ၊ ငြီးငွေ့ဖို့ပင်တော်ချေပြီ၊ မငြီးငွေ့ကြသေးဘူးလား"ဟူ၍ ဖြစ်၏။

**ဂန္ဓာရုံသို့ ပြန်ရောက်စ**

ဆယ်ရွာမှ ပြန်လာကြသောအခါ ဦးဇိနောရသ၊ ဦးဩဘာသ တို့အပြင် အသစ်ဖြစ်သော ကိုရင် နာရဒနှင့် ကိုရင် နန္ဒိယတို့လည်း ပါလာကြသည်၊ အမရပူရ ဂန္ဓာရုံသို့ ရောက်သောအခါ အောက်ပြည်



**မဟာဂန္ဓာရုံ နာယကချုပ်ဆရာတော်**
**အဂ္ဂမဟာပဏ္ဍိတ ဘဒ္ဒန္တဇနကာဘိဝံသမဟာထေရ်**
**(ယခုပျံလွန်)**

အောက်ရွာမှ ပြေးလာကြသော စစ်ပြေးဒုက္ခသည်တို့ဖြင့် ပြည့်ကြပ်နေသည်ကို တွေ့ကြရတော့၏။

ရန်ကုန်ကို ဗုံးကြဲသောအခါ လွတ်အံ့နိုးနိုး ပြေးလာကြသော မြန်မာများနှင့် အိန္ဒိယကို ပြန်ဖို့ ပြေးလာကြသော ကုလားများသည် အထက်ပိုင်းသို့ စုပြုံလာကြခြင်း ဖြစ်၏။

စစ်ပြေးဒုက္ခသည်တို့ကိုလည်း သင့်တော်ရာ အဆောက်အအုံကို ပေး၍ မိမိတို့ ရဟန်းသံဃာများကလည်း လွတ်သောကျောင်းတွင် သီးသီးသန့်သန့် နေထိုင်ကြသည်၊ ဆရာတော် ဆယ်ရွာက ပြန်ရောက်ပြီးနောက် ၁၃၀၄-ခုနှစ် ဝါဆိုဦးတွင် နောက်ထပ် တပည့်များ ရောက်လာကြပြန်၏၊ ယင်းတို့ကား မန္တလေးအထက် စဉ့်ကူးမြို့နယ် ရွှေလှေရွာမှ ဦးစန္ဒောဘာသနှင့် ဦးကဝိန္ဒတို့ နှစ်ပါး ဖြစ်ကြ၏၊ ထိုနှစ်ပါးကား ရွှေဘို မှန်သာကျောင်းမှ တစ်ဆင့် ပြောင်းလာကြသည်၊ * ရဟန်း ဖြစ်ပြီးစသာသာ

---

* နိဒါန-သံ-၃၉၁၊ ၃၉၆။

သိက္ခာငယ်ငယ်ပင် ရှိကြသေး၏၊ ဆရာတော် အရှင်ဇနကာဘိဝံသထံ ပညာ သင်ကြားကြရန် ဖြစ်သည်၊ ထို့ပြင် ယင်း၀ါဆိုဦး၌ နောက်ထပ်တစ်ပါး ရောက်လာပြန်၏၊ ၎င်းကား **ရှင်ဉာဏောဒယ**ဖြစ်သည်၊ ရှင်ဉာဏောဒယကို သူ့ဆရာ (ကော့ကရိတ်ဆရာတော်ကြီး)က မန္တလေးမှာတုန်းကပင် လာ၍ အပ်နှံဖူး၏၊ "တောင်မြို့ကို ပြောင်းတော့မှာ၊ အဲဒီရောက်မှ လာခဲ့"ဟု မှာထားခဲ့သည့်စကားအရ ယခုရောက်လာရခြင်း ဖြစ်ပေသည်၊ ဤနည်းအားဖြင့် ဆရာတော် အရှင်ဇနကာဘိဝံသမှာ ထိုနှစ် ဝါတွင်းက တပည့် ၇-ပါးလောက် ရှိလာသည်၊ ကိုရင် နာရဒသည် ရဟန်း ဖြစ်လာ၏။

အမြောက်ဗုံးဒဏ် တိမ်းရှောင်ရန် ဘယ်ကိုမှ မကြွဘဲ မဟာဂန္ဓာရုံကျောင်းတိုက်၌ ကျန်ရစ်ခဲ့သော (ဦးသာကြွယ် ခေါ်) ဦးသီလဝံသနှင့် ဘုန်းတော်ကြီး ဦးကောဏ္ဍညတို့ကား စစ်အတွင်းက ရောဂါရ၍ မရှေးမနှောင်း ပျံလွန်တော်မူကုန်ကြ၏၊ တောထွက် ဦးပဥ္စင်းကြီး ဦးတေဇောဘာသလည်း သူ့ရွာသို့ ပြန်သွားလေတော့သည်။ မူလလက်ဟောင်းဆို၍ အတိသုခဆရာတော်ဘုရားကြီးတစ်ပါးသာ ကျန်ရစ်တော်မူ၏။ (ဘုန်းတော်ကြီး ဦးသီလဝံသနှင့် ဘုန်းတော်ကြီး ဦးကောဏ္ဍည နှစ်ပါးလုံး အမရပူရ (တောင်မြို့)သားများ ဖြစ်ကြ၏။)

**မဟာမိတ်တို့ တုံ့ပြန်ဗုံးကြဲ**

မြန်မာပြည်အတွက် အုပ်ချုပ်ရေးစီစဉ်မှုများပြီးစီးသောအခါ ဂျပန်တို့က ၁၃၀၄-ခုနှစ် ဒုတိယဝါဆိုလဆုတ် ၅-ရက် (၁-၈-၄၂)နေ့တွင် စီစဉ်မှုကော်မတီကို ဖျက်သိမ်း၍ "မြန်မာပြည်အစိုးရသစ်"ကို ဖွဲ့စည်းပေးပြီးလျှင် ဒေါက်တာဘမော်ကို ဦးဆောင်တက်လာစေသည်၊ လူတို့သည် လှုပ်လှုပ်ရွရွ ပြန်လည်ထူထောင်ရေးတွေ လုပ်လာကြကုန်၏၊ ဂျပန်တို့ဝင်လာစဉ်က မီးလောင်ပြာကျခဲ့ရသော ပြာပုံတို့ကို ရှင်းလင်းခြင်း, အဆောက်အအုံသစ်များ ပြန်လည်ဆောက်လုပ်ခြင်း, ဈေးများပြန်လည်ဖွင့်ခြင်းတို့ဖြင့် ပြန်လည်စည်ကားစ ပြုလာကြသည်၊ ဤသို့ဖြင့် ရောက်ဝယ်ဖောက်ကား သွားလာလှုပ်ရှား၍ နေထိုင်လာခဲ့ကြရာ ၁၃၀၄-ခုနှစ် တော်သလင်းလဆုတ် ၅ ရက်(၂၉-၉-၄၂)နေ့တွင်ကား အမေရိကန်, အင်္ဂလိပ်တို့၏ မဟာမိတ်လေယာဉ်တို့က ဂျပန်ကို ပြန်လည်တိုက်ခိုက်ရင်း မန္တလေးမြို့ကြီးကို ဗုံးကြဲချတော့၏၊ ထိုအခါ ဗုံးပေါက်ကွဲသံများ, မြေပြင်မှ ဝေဟင်သို့ ပြန်၍ပစ်သော အမြောက်သံများဖြင့် ဆူညံတုန်ဟည်းသွားပြီးလျှင် မီးခိုးတလူလူ ယမ်းငွေ့တထောင်းထောင်း ကြောက်ခမန်းလိလိ ကြုံတွေ့ကြရပြန်၏။

ဂျပန်ခေတ်၌ အုပ်ချုပ်ရေးများ စတင်ကိုင်လာသောကြောင့် အေးချမ်းမှုရှိသလိုလို ဖြစ်လာရာမှ ယခုအခါ လူတို့သည် လှုပ်လှုပ်ရွရွ ထိတ်ထိတ်ပျာပျာ ဖြစ်လာကြရပြန်သည်။

မဟာမိတ်တို့ လေတပ်သည် ပြန်လည် အားကောင်းလာကြ၍ ခဏခဏလာပြီး ဗုံးကြဲတတ်၏၊ ထို့ကြောင့် ဈေးထဲတွင် ရောင်းဝယ်ဖောက်ကားသူတို့သည် "ညောင်သီးကိုလည်းစား, လေးမြားရဲ့အသံကိုလည်း နားထောင်"ဟူသကဲ့သို့ တစ်ဖက်က ဈေးရောင်းနေရစဉ်တွင် အခြား တစ်ဖက်ကလည်း လေယာဉ်သံကို နားထောင်ကြရတော့သည်။

ဆရာတော်က တပည့်များကို အမိန့်ရှိထားသည်၊ "လေယာဉ်ပျံလာပြီး ပစ်ခတ်လို့ ဗုံးကျင်းထဲဝင်ရရင် ရေးပြီးသား လက်ရေးမူကျမ်းစာဖိုင်တွဲကိုပါ တစ်ပါတည်း ယူသွား ပုန်းအောင်းကြ"ဟူ၍ မှာထားသဖြင့် ယင်းစကားအရ "လက်ရေးမူကျမ်းစာဖိုင်တွဲကြီးကိုပါ ပွေ့ပွေ့ပြီး ဗုံးကျင်းထဲဝင်ခဲ့ရတယ်"ဟူ၍ အရှင်စန္ဒောဘာသက ပြန်လည် အမိန့်ရှိပါ၏။

* **မှတ်ချက်။** ။ ယင်းနှစ်ပါးတွင် **ဦးကဝိန္ဒ**သည် နောင်အခါ စဉ့်ကူးမြို့နယ် ရွှေလှေရွာဆရာတော် ဖြစ်လာ၏၊ **ဦးစန္ဒောဘာသ**သည် (ဆရာတော် အရှင်ဇနကာဘိဝံသ မရှိပြီးနောက်) နာယက ငါးပါးတွင် အကြီးအမှူးဦးစီးနာယက ဖြစ်တော်မူလာ၏၊ ဆရာတော်၏ အရိုက်အရာကို မပျက်စီးရအောင် ဆက်လက်ထိန်းသိမ်းသည့် တပည့်ကြီးတစ်ပါး (သားကြီး ဩရသ)ဖြစ်ကာ တိုက်တာကြီးကို ကြီးမှူးအုပ်ချုပ်တော်မူခဲ့၏၊ **၁၃၅၁**-ခုနှစ်က ပျံလွန်တော်မူခဲ့သည်။

**ငြိမ်းချမ်းမှု မရကြသေး**

ဤနည်းဖြင့် ရက်ညောင်းလာသော အခါ... ငုံးသံ အမြောက်သံများလည်း တဖြည်းဖြည်း များလာသည်၊ မန္တလေးမြို့ပေါ်ရှိ သံဃာတော်တို့မှာ စိုးရိမ်မကင်း ဖြစ်လာကြရကုန်၏၊ အမရပူရမြို့သည်လည်း တစ်စပ်တည်း ဖြစ်၍ ဗုံးရိပ် ဗုံးဒဏ်ကို အတူတူပင် ခံကြရသည်၊ သို့နှင့် မဟာဂန္ဓာရုံတိုက်၌ လက်ရှိသံဃာ ၆-ပါး ၇-ပါးကို မိဘရပ်ထံ ပြန်လိုက ပြန်ခွင့်ပြုတော်မူရပြန်သည်။

ထိုအခါ ဦးဇိနောရသနှင့်ဦးသြဘာသတို့ ပြန်ကြ၏၊ ဦးသြဘာသမှာ ပျော်ဘွယ်မြို့နယ် ရွာသာရွာဇာတိ ဖြစ်၏၊ ထို့ပြင် ဦးနာရဒနှင့် ကိုရင်နန္ဒိယတို့ကိုလည်း မိဘများက ပြန်ခေါ်ကြ၍ ပြန်ကြရ၏၊ ထို့နောက် ဦးစန္ဒောဘာသနှင့် ဦးကဝိန္ဒတို့ပါ ပြန်ကုန်ကြသည်၊ နောက်ဆုံး ကျန်နေသည်ကား...ကိုရင်ဉာဏောဒယကလေး ဖြစ်၏၊ မန္တလေးအထက် စဉ့်ကူးမြို့နယ် ဆင်သေရွာသား ဖြစ်သည်၊ မိဘများလည်း အခေါ်မရောက်လာသေး၊ ဆရာတော်ကလည်း မပြန်စေချင်သေး၍ ကိုရင်တစ်ပါးတည်း ကျန်နေခြင်းဖြစ်သည်။

မဟာမိတ်တို့၏ လေယာဉ်ပျံက မကြာ မကြာ စက်သေနတ်ဖြင့် ဒက်ဒက်ချင်းစပ်အောင် လှည့်ပတ်ပစ်တတ်၏၊ ဗုံးလည်း ကြဲချတတ်၏၊ ထိုအခါမျိုးတွင် ကျောင်းတိုက်အရှေ့ဘက်က တောင်သမန်အင်းစောင်းတွင်ရှိသော ဗုံးကျင်းထဲသို့ ပြေးပြေးဝင်ခဲ့ရ၏၊ ဝင်သောအခါ ဆရာတော်က မှာကြားထားသည့်အတိုင်း ရေးပြီးသား ရူပသိဒ္ဓိဘာသာဋီကာ စာမူဖိုင်တွဲကြီးကို ရင်မှာ ပွေ့ပြီး ဗုံးကျင်းထဲ ဝင်ခဲ့ရသည်ဟု ရှင်ဉာဏောဒယကလည်း ပြန်လည် ပြောပြပါသည်။

## ရွှေရည်စိမ်လွတ်လပ်ရေးကြီးဖြစ်နေပါပြီကော

**လွတ်လပ်ရေး အတုကြီး**

ဂျပန်ခေတ်မှာ ဒေါက်တာဘမော် ခေါင်းဆောင်သော မြန်မာပြည် အစိုးရအုပ်ချုပ်၍ တစ်နှစ်ပြည့်သောနေ့ ၁၃၀၅-ခုနှစ် ဝါခေါင်လဆန်း ၁-ရက် (၁-၈-၄၃) နေ့တွင် ဂျပန်တို့က မြန်မာပြည်အား "ရွှေရည်စိမ်လွတ်လပ်ရေး"ပေးလေသည်၊ဒေါက်တာဘမော်ကို အဓိပတိခန့်၏၊ ဒေါက်တာဘမော်က တစ်ဖန် ဝန်ကြီးများကို ရွေးချယ်ခန့်ရပြန်သည်။

ဂျပန်တို့က မြန်မာပြည်အား လွတ်လပ်ရေးပေးသည် ဆိုသော်လည်း အနှစ်သာရရှိသော တကယ့်လွတ်လပ်ရေး မဟုတ်၊ တစ်ချိန်တုန်းက ဂျပန်က ကိုးရီးယား မန်းချူးကိုနှင့် တရုပ်ပြည်တို့အား ပေးခဲ့သော လွတ်လပ်ရေးမျိုးသာ ဖြစ်၏၊ ဂျပန်က ကြိုးဆွဲသလို က,ရသော ရုပ်သေးအစိုးရမျိုး ဖြစ်သည်၊ ယခုလည်း ဒေါက်တာဘမော် အစိုးရသည် ဂျပန်က ကြိုးဆွဲသလိုသာ က, နေရသော အစိုးရဖြစ်နေ၏။

ထို့ကြောင့် "မြန်မာပြည်အစိုးရ"ဆိုသော်လည်း မြန်မာတို့ ဆန္ဒသဘောအရ မည်သည့် အရာမျှ လွတ်လွတ်လပ်လပ် လုပ်ပိုင်ခွင့် မရှိ၊ ဂျပန်တို့၏ ဆန္ဒကို ဦးစွာ ယူရသေးသည်၊ ဂျပန်တို့ သဘောတူမှ, ဂျပန်တို့၏ ဆန္ဒကိုက်ညီမှသာ အလုပ်တစ်ခု ဖြစ်နိုင်၏။

ထို့ကြောင့် မြန်မာတို့ ထင်ကြေးမကိုက် ဖြစ်လေပြီ၊ အင်္ဂလိပ်လက်အောက်မှ လွတ်မြောက်သော်လည်း ဂျပန်လက်အောက်သို့ ပြောင်း၍ ရောက်ရသကဲ့သို့သာ ဖြစ်နေတော့၏။

ထို့ကြောင့် မြန်မာခေါင်းဆောင်တို့သည် တစ်မျိုး တစ်မည် ဆက်လက် ကြံစည်နေကြရပြန်သည်။

**အတိသုခဆရာတော် လာပင့်ခေါ်**

အတိသုခ ဆရာတော်ဘုရားကြီးသည် ဘယ်ကိုမှ မကြွ, အလွန် ဣန္ဒြေရလှသည်၊ သီလရှင်ကြီးဒေါ်တုနဝတီ၏ ဝေယျာဝစ္စပြုစုမှုဖြင့် မျှတရောင့်ရဲတော်မူနေ၏၊ နောက်ပိုင်းတွင် ဆရာတော်ကြီးသည် အနည်းငယ် ကျန်းမာရေးယိုယွင်းလာသည်၊ မဟာမိတ်လေတပ်တို့ကလည်း မကြာခဏလာ၍ စက်သေနတ်ဖြင့် လှည့်ပတ်ပစ်တတ်သည်၊ တစ်ခါတလေ ဗုံးပါကြဲချသည်၊ တဖြည်းဖြည်း အပစ်အခတ်တို့လည်း များများလာ၏။

ထိုအခိုက်တွင် အောက်ပြည် အောက်ရွာမှ အတိသုခ ဆရာတော် ဘုရားကြီး၏ ဆွေမျိုး သားချင်း ရဟန်းနှစ်ပါး ရောက်လာ၏၊ ဆရာတော်ကြီးသည် ရန်ကုန်မြို့ စဥ့်အိုးတန်းရပ် ဇာတိသား ဖြစ်၏၊ မောင်နှမ နှစ်ယောက် ရှိခဲ့သည်၊ ယခု ရဟန်းနှစ်ပါးလည်း အပင့်ခိုင်း၍ ရောက်လာကြခြင်း ဖြစ်သည်၊ ထို့ကြောင့် ဆရာတော်ဘုရားကြီးသည် ကြွရောက်လိုက်ပါသွား၏၊ ဆွေမျိုးများရှိရာ ရန်ကုန်အနီးက မှော်ဘီမြို့ကလေးသို့ အရောက် လိုက်ပါသီတင်းသုံးတော်မူ၏။

**တစ်ပါးတည်း ကေစာရိ**

ဆရာတော်အရှင်ဇနကာဘိဝံသမှာလည်း တပည့်ကလေး ရှင်ဉာဏောဒယနှင့် နှစ်ပါးတည်း ဂန္ဓာရုံတိုက်ထဲမှာ ကျန်ရစ်၏၊ ထိုအခိုက်တွင် ဗုံးသံအမြောက်သံတွေ တဖြည်းဖြည်း များလာ၍ ရှင်ဉာဏောဒယ၏ မိဘများက စိတ်မချနိုင်သဖြင့် လာရောက်ခေါ်သောအခါ ထည့်လိုက်ရပြန်သည်။

ထို့နောက်တွင်ကား မဟာဂန္ဓာရုံကျောင်းတိုက်ထဲတွင် ဆရာတော် အရှင်ဇနကာဘိဝံသ တစ်ပါးတည်းသာ ရှိတော့သည်၊ ကိုယ့်ကျောင်း ကိုယ်ရှင်း, ကိုယ့်တံမြက် ကိုယ်လှည်း, ကိုယ့်သောက်ရေ ကိုယ်ခပ်၊ အလွန်တာဝန်ကျဉ်းလှ၏၊ ဒကာလှမောင်နှင့် ဒကာမမအေးတို့ ချက်ပြုတ်ကပ်သော ခရမ်းချဉ်သီးဟင်းဖြင့်ချည်း နေ့တိုင်း ဘုဉ်းပေးမျှတတော်မူရ၏။

ဤသို့လျှင် မဟာဂန္ဓာရုံကျောင်းတိုက်ထဲမှာ ဆရာတော် အရှင်ဇနကာဘိဝံသ တစ်ပါးတည်း ဧကစာရီကျင့်နေရသော်လည်း ကျမ်းစာရေးသားမှုကိစ္စကား မပျက်ခဲ့ပေ၊ တစ်ပါးတည်း မှန်မှန်ရေးလျက်နေပေသည်၊ မည်မျှ ယုံကြည်ချက် ပြင်းပြ၍ မည်မျှလောက် စိတ်ဓာတ် ခိုင်မာပြီး, မည်မျှလောက် သာသနာစိတ်ထားသည်ကို ဤအချက်ဖြင့် မှန်းဆအကဲဖြတ်နိုင်ပါ၏။

**ဆရာတော့်ဆန်က ငါးပြည်သာကျန်တော့**

ဤသို့ ရေးနိုင်အောင်ပင် မြစ်ငယ် အရှေ့ဘက်က တမုတ်ဆိုး, ဒေါင်းရိုးရွာတို့မှာ သွားပြီး ဗုံးခိုနေကြသည့် ကိုလှမောင် နှင့် မအေးတို့ကို လူလွှတ်၍ အခေါ်ခိုင်းရခြင်းဖြစ်ပေသည်၊ ထိုပုဂ္ဂိုလ်များသည် ရင်းနှီးသောပုဂ္ဂိုလ်များ, အန္တအတာခံသောပုဂ္ဂိုလ်များ ဖြစ်ကြ၏၊ ဝေယျာဝစ္စပြုစုပေးမည့်သူများအဖြစ် ခေါ်ရခြင်း ဖြစ်သည်။

ကိုလှမောင် မအေးတို့ ရောက်လာသောအခါ "ဆရာတော့်ဆန်က ငါးပြည်လောက်သာ ကျန်တော့တာ၊ ဒါလေးကုန်သွားရင် ဘယ်လို လုပ်မလဲ"ဟု ဇနီးမောင်နှံ တိုင်ပင်ကြရ၏၊ မအေးက ခွက်တောင်းကလေးဖြင့် အပြန်ပြန်အလှန်လှန် ခြင်ကြည့်မိသည်၊ စိတ်မောသွား၏၊ ပြီးလျှင် ကိုလှမောင်က ဂျပန်ကူလီလိုက်ထမ်းပြီး ဆန်ဝယ်၍ ဘဏ္ဍာတိုက်မီးဖိုချောင်ကို ဖြည့်တင်းရသည်ဟု ဆို၏။

လက်ပံပွင့်တွေ ကောက်, အညာခြွေ, အခြောက်လှန်း, ဆီးသီးဖြင့် ချဉ်ရည်ကျို, အရည်သောက်ဟင်းမျိုး၊ ငါးပိ လုံလောက်အောင် မခပ်နိုင်သော ခရမ်းချဉ်သီးဟင်းမျိုးဖြင့် နေ့စဉ် ဆက်ကပ်သည်ကို မြိန်မြိန်ရှက်ရှက် ဘုဉ်းပေးမျှတတော်မူရသည်ဟူ၏။

ထိုစဉ်တုန်းက တစ်နေ့တွင် တောင်သမန်အင်းထဲမှ လယ်တဲကလေးတစ်တဲက ဆရာတော်အားပင့်၍ ဘဲဥဟင်းဖြင့် ကပ်ရာ မြိန်လှဘိခြင်းဟု ဆရာတော်ကိုယ်တိုင် ပြန်လည်ပြောပြဖူးသည်၊ ထိုစဉ်ကမူ ဘဲဥဟင်းသည် နတ်သုဒ္ဓါတမျှ ဖြစ်ခဲ့ရ၏။ ။

# အလုပ်လုပ်နေဖို့က ကိုယ့်တာဝန်

**အလုပ်ရှိနေမှ ဂုဏ်ရှိသည်**

ယခုအခါ ဆရာတော်အရှင်ဇနကာဘိဝံသမှာ ဖုံးသံ၊ အမြောက်သံ၊ စက်သေနတ်သံကြားတွင် တစ်ပါးတည်း ကျမ်းစာရေးသားလျက်နေသည်၊ ရေးနေသော ကျမ်းမှာ **"ကစ္စည်းဘာသာဋီကာ"** ဖြစ်၏၊ (သဒ္ဒါကြီး၏ အဖွင့်ကျမ်းပင် ဖြစ်သည်။) လွန်ခဲ့သောနှစ်တို့က ဖုံးသံ အမြောက်သံကြားတွင် ရူပသိဒ္ဓိဘာသာဋီကာကို ရေးသားခဲ့၏၊ အစစ အရာရာ မငြိမ်မသက် အခက်အခဲတို့ကြောင့် ပုံနှိပ် ထုတ်ဝေဖို့ကား စိတ်ကူးပင် မပြုနိုင်သေး၊ စစ်ဘေး စစ်ဒဏ် မီးလျှံယမ်းနံ့တို့ ဝန်းကျင်တစ်ခို၌ ပျံ့နေစဉ်မှာပင် အရှင်ဇနကာဘိဝံသကတော့ မနားမရပ် အလုပ်လုပ်လျက်ရှိနေသည်။

* "အိမ်ကြီးတစ်အိမ်ကို မီးလျှံရဲရဲ စွဲငြိတောက်လောင်သောအခါ ပျာပျာသလဲ ဆွဲမိဆွဲရာ အိုးတို ခွက်စ ရရာ ယူလျှင် ယူမိသမျှပစ္စည်းသည် သုံးဖို့စွဲဖို့ ဖြစ်သကဲ့သို့ ထို့အတူ မီး ၁၁-ပါး၏ ဝါးမျိုလောင်မြိုက်ခြင်းခံနေရသော သူတို့သည်လည်း ဒါန၊ သီလ၊ ဘာဝနာတို့ကို ရနိုင်သမျှ ရရာ ဆွဲလျှင် ဆွဲမိသမျှ အကျိုးရှိ၏"။

ဤသို့ ရှင်တော်ဗုဒ္ဓ ဟောပြထားသော တရားတော်ကို အရှင်ဇနကာဘိဝံသက သတိရနေ၏၊ ယခုလည်း ကမ္ဘာကြီးတစ်ခုလုံးကို တဟုန်းဟုန်းနှင့် မီးလျှံတွေ ဝါးနေ၏၊ လောင်ကျွမ်း ရှို့မြှိုက်နေကြ၏၊ ဤမီးလျှံထဲ၌ နေရသော မိမိသည်လည်း ရနိုင်သမျှ ရရာကို ဆွဲသောအားဖြင့် သာသနာတော်အတွက် မိမိအသက်နှင့် ခန္ဓာကိုယ်၊ မိမိဉာဏ်စွမ်းကို အသုံးချ၍ အလုပ် လုပ်နေမှ ဖြစ်တော့မည်၊ အလုပ်လုပ်နေဖို့က ကိုယ့်တာဝန် ဖြစ်သည်ဟု ဆုံးဖြတ်ကာ အလုပ်လုပ်လျက် နေပါသတတ်။

မဟာဂန္ဓာရုံကျောင်းတိုက်အတွင်း၌ ဆရာတော် အရှင် ဇနကာဘိဝံသ တစ်ပါးတည်းသာ ရှိ၏၊ ကျောင်းတိုက်၏ မြောက်ဘက်ဇရပ်ဝင်း၌မူ ဒကာလှမောင်နှင့် ဒကာမ မအေးတို့ ဇနီးမောင်နှံ ရှိကြ၏၊ သူတို့ ဇနီးမောင်နှံသည်လည်း ကျေးဇူးများလှပေ၏၊ သူတို့က ဆွမ်းကွမ်း ဝေယျာဝစ္စ ပြုကြပေသည်၊ ဆရာတော်၏ သာသနာပြုလုပ်ငန်းကို တစ်စွန်းတစ်စ ကူညီသူများဟုပင် ဆိုရချေမည်၊ အချိန်တို့သည် တရွေ့ရွေ့နှင့် ရက်တွေညောင်း၍ ပြောင်းလဲကြကုန်ပြီ။ ။

**စစ်မျက်နှာတစ်ခု အေးချမ်းသွား**

၁၃၀၅-ခုနှစ် (ခရစ် ၁၉၄၃-၄၄-ခုနှစ်များ) ၌ အင်္ဂလိပ်၊ အမေရိကန်တို့သည် နာလန်ထူလာကြ၏၊ အားပြန်ကောင်းလာသည်။

အမေရိကန် စက်ရုံများမှ လက်နက်ပစ္စည်း ခဲယမ်းမီးကျောက်တို့ကို အတွင်ထုတ်လုပ်၍ ဥရောပစစ်မျက်နှာသို့ ပို့ပေးနေချိန် ဖြစ်၏။ ဥရောပတွင် ထိုးစစ်ဆင်၍ ဘုရင်လုပ်နေသော ဂျာမနီကို မဟာမိတ်တပ်တို့က သုံးဖက်ညှပ်ပြီး ဝိုင်း၍တိုက်ကြ၏၊ ဂျာမနီတို့ အထိနာကြသည်၊ များစွာ ပျက်စီးဆုံးရှုံးကြရ၏၊ လူလုံးမလှအောင် ဖြစ်ကြရသည်။

ထို့ကြောင့် ၁၉၄၅-ခုနှစ် မေလ ၈-ရက်နေ့တွင် ဂျာမနီတို့သည် ခြွင်းချက်မရှိ လက်နက်ချ အရှုံးပေးသောကြောင့် အနောက် ဥရောပစစ်မျက်နှာတွင် ဒုတိယကမ္ဘာစစ်ကြီး ပြီးဆုံးသွားလေသည်။ ။

---

* သံယုတ် ၁၊ နှာ-၂၉၊ အံ-၁၊ တိက၊ နှာ-၁၅၅။

# ဂျပန်တို့ တဖြည်းဖြည်း အရေးနိမ့်လာ

**ဂျပန်တို့ဘဝ အကြပ်အတည်း**

ဥရောပတွင် စစ်ပြီးဆုံးသောအခါ ရှိသမျှ အင်အားတို့ကို ကမ္ဘာ့အရှေ့ဖျား စစ်မျက်နှာတွင် စုပြုံ၍ အသုံးချတော့၏၊ မဟာမိတ်တို့သည် စစ်မျက်နှာတစ်ခုတည်းကိုသာ စူးစိုက်၍ ဦးတည်တိုက်ခိုက်လာကြတော့၏၊ ပစိဖိတ်သမုဒ္ဒရာအတွင်း၌ သွားလာ ခုတ်မောင်းနေကြသော ဂျပန်သင်္ဘောများကို မဟာမိတ်တပ်တို့က အတင်းလိုက်လံ တိုက်ခိုက်နေ၏၊ များစွာ ပျက်စီး ဆုံးရှုံးကြရသည်၊ ထို့ကြောင့် အာရှအရှေ့တောင်ပိုင်း၌ တပ်စွဲထားသော ဂျပန်စစ်တပ်များအတွက် စားနပ်ရိက္ခာများ, ခဲယမ်းမီးကျောက်များ တင်ပို့ရန်သင်္ဘော လုံလောက်စွာ မရှိကြတော့ချေ။

သို့ဖြစ်၍ ဂျပန်တို့သည် သူတို့ အုပ်ချုပ်နေသော နယ်မြေများရှိ အရပ်သားတို့ထံမှ အစားအသောက်တို့ကို အတင်းလုယူခြင်း, ချွေးတပ်ဆွဲခြင်း, အနိုင်အထက်ပြုခြင်း, တိုင်းရင်းသားတို့နှင့် ဆက်ဆံရေး မပြေပြစ်ခြင်း စသောကိစ္စများ ပေါ်ပေါက်လာကြတော့၏၊ ထို့ကြောင့် ဂျပန်တို့ကို မုန်းတီးလာ, ရွံလာကြတော့၏၊ တစ်နေ့တခြား သူတို့အပေါ် နာကြည်းလာကြကုန်၏၊ သို့နှင့် ဟိုနေရာ ဒီနေရာတွင် ဂျပန်တို့ကို တိုင်းရင်းသားတို့က ပြန်လည် တိုက်ခိုက်တော်လှန်ကုန်ကြသည်။

၁၉၄၅-ခုနှစ် မတ်လတွင်းကပင်လျှင် ဗိုလ်ချုပ်အောင်ဆန်း အမှူးပြုသော မြန်မာ့တော်လှန်ရေးတပ်က ဂျပန်တို့ကို ပြန်၍ တော်လှန်နေကြပြီ၊ အင်္ဂလိပ် အမေရိကန် မဟာမိတ်လေတပ်တို့ကလည်း ကူညီ တိုက်ခိုက်ပေးနေသည်၊ ဂျပန်တို့သည် မိခင်တိုင်းပြည်ရှိရာ အရှေ့ဘက်သို့ တရွေ့ရွေ့ ဦးတည် ပြေးလွှားနေကြရပြီ။

**အမရပူရကိုပါ ဗုံးတွေချ**

အင်္ဂလိပ်, အမေရိကန်တို့၏ မဟာမိတ်လေယာဉ်ပျံတို့သည် တစ်နေ့ထက်တစ်နေ့ အကြိမ်များစွာ ပစ်ခတ်လာကြသည်၊ ဆုတ်ခွာထွက်ပြေးနေကြသော ဂျပန်တပ်တို့ကို နောက်က လိုက်၍ စက်သေနတ်ဖြင့် ပစ်ခတ်တတ်၏, ဗုံးလည်း ချတတ်၏၊ ဂျပန်တို့နှင့် ရောထွေးယှက်တင် နေကြရသော အရပ်သူ အရပ်သားတို့လည်း ဘေးရန် မကင်းကြ၊ အမရပူရမြို့ကလေးတွင်လည်း ဂျပန်တပ်များ ရှိသဖြင့် လာ၍ လာ၍ ပစ်ခတ်တတ်၏၊ ဗုံးလည်း ချတတ်၏၊ တစ်နေ့သောအခါ အမရပူရမြို့ကလေးမှာပင် ၇-ကြိမ်လောက် လာ၍ ဗုံးတွေ ကြဲချ၏။

အချို့အကြိမ်မှာ ဂန္ဓာရုံကျောင်းတိုက် အတွင်းသို့ပင် ဗုံးတွေ လာ၍ ချ၏၊ တစ်ခါတွင်မူ ဗုံးပေါက်ကွဲ၍ လွင့်စင်လာသောအစအနများပင် ဆရာတော်အရှင်ဇနကာဘိဝံသ၏အနားမှ အရှိန်ပြင်းစွာ ဖြတ်သန်း သွားကြ၏၊ သွေးလန့်စရာ ရင်တုန်စရာကြီးပင်ဖြစ်တော့သည်၊ ထိုအခါ ဆရာတော် အရှင်ဇနကာဘိဝံသက ဤသို့ အဓိဋ္ဌာန်လိုက်၏၊... "ငါ့မှာ သာသနာတော်ကို အရာထင်အောင် ပြုဖို့ရန် ကံပါသေးလျှင် ဤလက်နက်ကြီးဘေးမှ လွတ်ပါစေ, သာသနာပြုဖို့ရန် ကံမပါလျှင်တော့ ဤဘေးကြီးမှ လွတ်ဖို့ရန် မမျှော်လင့်တော့ပါ" ဟူ၍ ဖြစ်၏၊ နောက်ပိုင်းတွင် အောက်ပါဂါထာကိုလည်း ရေး၍ ရွတ်၍ အဓိဋ္ဌာန်လေတော့သည်။

**အဓိဋ္ဌာန်ဂါထာ**

သစေ အာဒိစ္စဗန္ဓုဿ,  
ဟေဿံ သာသနကာရကော၊  
ယုဒ္ဓေ ဘယာ ပမုစ္စေယျံ-မှိ,  
နော စေ နာမှိ ပမုစ္စကော။

အာဒိစ္စဗန္ဓုဿ- နေနတ်နွယ်ဖွား, ဘေးတော်ဘုရား၏၊ သာသနကာရကော-သုံးရပ် သာသနာ, စည်ပင်သာအောင်, ကောင်းစွာပင့်ကူ, မြှင့်နိုင်သူသည်၊ သစေ ဟေဿံ-ရှေးပါရမီ, ပါခဲ့ပြီမို့, စုံညီမြတ်လေး, အကယ်၍ ဖြစ်နိုင်သေးအံ့၊... ယုဒ္ဓေ-

ဥရောပနှင့်, အာရှမကျန်, ပြည်မြန်ကိုချန်း, မီးဟုန်းဟုန်းစွဲ, ဤစစ်ပွဲ၌၊ ဘယာ-အမြောက် ဗုံးဆန်, လက်နက်ဒဏ်ဟု, ရန်မာန်မကောင်း, ဘေးအပေါင်းမှ၊ ပမုတ္တော အမို-ကံ ဉာဏ် လုံ့လ, အသုံးချသဖြင့်, လုံးဝသန့်ရှင်း, လွတ်ကင်းရပါစေသတည်း၊ နော စေ ဟေသံ-ဗုဒ္ဓသာသနာ, ပြုလောက်ရာသည့်, ဇာတာတော်တွင်, ကံမမြင်ပါမူကား၊ နာမို ပမုတ္တကော-အမြောက်ဗုံးဆန်, လက်နက်ဒဏ်မှ, လွတ်ရန်မမျှော်, ဘဝခန္ဓာတော် ရုပ်သိမ်း၍, အေးငြိမ်းစွာ စံရပါစေသော်။ ။

## ကံဇာတာ ပါပါမှ သာသနာဆိုတာ ပြုနိုင်

**ကံသာလျှင် အမိ ကံသာလျှင် အဖ**

ဤသို့လျှင် တကယ့် စစ်မှန်သော စိတ်ဓာတ်, တကယ့် မြင့်မြတ်သော ရည်ရွယ်ချက်တို့ဖြင့် တကယ် အမိဋ္ဌာန်၍ အလုပ် လုပ်သောအခါ တကယ်ပင် ဘေးအပေါင်းတို့မှ လွတ်မြောက်ခဲ့ရလေသည်၊ ရှေးကံတို့, အစွမ်းသတ္တိတို့, ပါရမီတို့, သစ္စာတို့ဟူသည် ဤနေရာမျိုးတွင် ငုံ့လျှိုးနေရာမှ စွင့်စွင့်ငွားငွား ထွက်ပေါ်လာကြ၍ သူတို့ သဘာဝကို ပီပီသသပြတတ်ကြကုန်၏၊ ထို့ကြောင့် ယခုအခါ ဆရာတော်က မကြာ မကြာ မိန့်တတ်သည်မှာ... "သာသနာပြုနိုင်တယ်ဆိုတာ ကံဇာတာပါမှ"ဟူ၍ ဖြစ်သတည်း။

ဤသို့အားဖြင့် အမိဋ္ဌာန်ပြီးလျှင် အမြောက်ဗုံးသံ တဝုန်းဝုန်းကြားနေရသည်အထိ, စစ်လေယာဉ်ပျံများ တဝီဝီ ပျံဝဲနေသည့်အတွင်း, စစ်မီးလျှံများ တဝင်းဝင်း, စစ်မီးခိုးများ တလူလူ ထနေသည့်ကြားက အနာဂတ်ကာလများတွင် သာသနာ့ဝန်ထမ်းပုဂ္ဂိုလ်များ အသုံးပြုဖို့ရာ ကျမ်းစာများ ရေးသားတော်မူနေ၏။

အများစုမှာ စိတ်မအေး ကိုယ်မအေး ပြေးလွှားနေကြရသော်လည်း ဆရာတော် အရှင်ဇနကာဘိဝံသကား စိတ်ကို တတ်နိုင်သမျှ ငြိမ်အောင်ထား၍ ကျမ်းစာများ ရေးသားတော်မူနေ၏၊ ထိုအချိန်က ရေးနေသော ကျမ်းမှာ သဒ္ဒါကြီး၏အဖွင့် "ကစ္စည်းဘာသာဋီကာ"ကျမ်းစာ ဖြစ်သည်။ ။

**စစ်မီးလျှံထဲက စာမူဖိုင်တွဲကြီး**

ဤအဖြစ်အပျက် အကြောင်းအရာများကို ... (ယခုအခါ မကွေးတိုင်းတိုင်းသာသနာရေးဦးစီးမှူးဖြစ်နေသော) **ဦးစိန်လှိုင်**က ပြန်၍ ပြောပါ၏၊ ဦးစိန်လှိုင်သည် ထိုစဉ်က ကိုရင်ပေါက်စကလေး ရှင်ဉာဏောဒယ ဖြစ်ခဲ့၏၊ အခြားပုဂ္ဂိုလ်တို့မှာ ကိုယ့်ရပ်ကိုယ့်ရွာသို့ ပြန်ကုန်ကြသော်လည်း သူတစ်ပါးတည်း မပြန်ရသေးဘဲရှိစဉ် ကြုံတွေ့ရပုံကလေးများကို ပြန်လည် ပြောပြပါ၏။

"မကြာ မကြာ စစ်လေယာဉ်ပျံက လာ လာ ဝဲတယ်၊ စက်သေနတ်နဲ့လည်း လှည့်ပတ် ပစ်တတ်တယ်၊ အဲဒီ အခါမျိုးမှာ "ကိုရင်လေး ဗုံးကျင်းထဲဝင်, ဗုံးကျင်းထဲဝင်"တဲ့၊ ဆရာတော်က အရေးတကြီး သတိပေးတတ်တယ်၊ အဲဒီတုန်းက စက်သေနတ်ပစ်ရင်, ဗုံးချရင် ရှောင်ဖို့ တိမ်းဖို့ဆိုပြီး မြေကြီးထဲမှာ တူးထားတဲ့ ဗုံးခိုကျင်းကလည်း ရှိတာကိုး၊ အဲဒီအခါမှာ စောစောက ဆရာတော်မှာထားတဲ့အတိုင်း ရေးပြီးသား လက်ရေးမူကြမ်း စာဖိုင်တွဲကြီးတွေကို ရင်ဘတ်မှာ ပွေ့ပွေ့ပြီး ဗုံးကျင်းထဲ ပြေးပြေး ဝင်ရတော့တာပဲ၊ သူ့စာမူတွေက လူနဲ့ သိပ်ကွာရတယ် မရှိလှဘူး၊ သွားလေရာ လာလေရာ တစ်ပွေ့ပွေ့ တစ်ပိုက်ပိုက်ပဲ"။ ။

**ဆရာ့မေတ္တာ ကရုဏာများ**

ဤသို့ တိုင်းသာသနာရေးဦးစီးမှူး ဦးစိန်လှိုင် က ပြန်၍ ပြောပါ၏၊ တစ်ခါသော် ဆရာတပည့်နှစ်ပါး ဆွမ်းထိုင်၍ စားနေကြသည် ဆို၏၊ ထိုအခိုက်တွင် စက်သေနတ်ပစ်နေကျ လေယာဉ်ပျံကြီးက လှည့်ပတ် ဝဲလာပြီး "ဒက်ဒက်ဒက်ဒက်"ဟူ၍ ပစ်သောအခါ ကိုရင်ကလေး ရုတ်တရက် ထပြေးမည် ပြု၏၊ ထိုအခိုက် ဆရာတော်က ကိုရင်ကလေး၏ သင်္ကန်းစကို လှမ်း၍ ဆွဲထားသည် ဆို၏၊ ပြီးလျှင် ..."ငါ

သေလို့မှ မင်းမသေဝံ့ဘူးလားကွ, တို့ ဆရာ တပည့် နှစ်ပါးတည်းရှိတဲ့ ဥစ္စာ"လို့ မိန့်ပါသတဲ့။

တစ်ခါတွင်လည်း ကိုရင်ကလေး ရှင်ဉာဏော ဒယသည် ဂန္ဓာရုံဝန်းကျင်၏ အအေးဒဏ်ကြောင့် ဖျားတော့၏၊ စစ်အတွင်းကာလဖြစ်၍ မယ်မယ်ရရ ဆေးဝါးမရှိရှာ, ကွမ်းရွက်ပြုတ်ရည်နှင့် သန္တပ္ပန မြန်မာဆေးကို ဆရာတော်က တိုက်ကျွေးသည် ဟူ၏၊ သို့သော် အဖျားရောဂါ မကျပါလေ၊ ထိုအခါ ဆရာတော်က ဤသို့ ပြော၏၊ "ကဲကွာ-အားလျား မှောက်, ငါ နင်းပေးမယ်, ငါ့မှာ တာဝန်ရှိတယ်ကွ, ဘုရားဟော မဟာဝါခန္ဓကထဲမှာ ပါတယ်၊ တပည့် နေမကောင်းရင် ဥပဇ္ဈာယ်ဆရာက နင်းနှိပ် ချိုးဖဲ့ ပြုစုပေးရမယ်တဲ့၊ ကဲ-မှောက်"...

အနင်းမခံလိုသော်လည်း ဖွတ်နင်းပေးမည်လုပ် နေသဖြင့် မှောက်၍ ပေးရတော့၏၊ သူ့ခန္ဓာကိုယ် ကြီးဖြင့် ကိုရင်ပေါက်စကလေး၏ ကျောပေါ်ကို တက်၍ နင်းရာ "တအင်းအင်း"ဖြင့် မခံသာအောင် ရှိရလေ၏၊ ကြိတ်မှိတ်အောင့်အည်း နေရတော့၏၊ ဤသို့ နင်းသောကြောင့် ချွေးများ ပြိုက်ပြိုက်ကျ အောင် ထွက်လာသဖြင့် အဖျား ရောဂါလည်း ပျောက်ကင်းသွားတော့သည် ဟူသတတ်။

ထို့နောက် ဆရာတော်က ဆက်လက်မိန့်မြွက်နေ သေးသည် ဟူ၏၊ သာသနာတော်မှာ ဆရာ တပည့် ဆက်ဆံရေးကို ရှင်တော်ဗုဒ္ဓက ဤသို့ "မူ" ချထား ကြောင်း ဆက်လက် မိန့်ကြားနေပြန်သတတ်။...

"ဒီလို အခါမျိုးမှာဆိုရင် ဆရာကလည်း တပည့် ကို ပြန်ပြီး ပြုစုရတာပဲ၊ အခုခေတ်မှာ သိနေကြတာ က တပည့်ကသာ ဆရာကို ပြုစုရမယ်လို့ သိနေကြ တာ၊ သင်ပေးတော့လည်း တပည့်တွေသာ သင်ဖေး နေကြတာ၊ မဟာဝါ ပါဠိတော် ခန္ဓကထဲမှာက ဆရာ ဝတ်တွေလည်း အများကြီး ရှိသေးတာပဲ"ဟူ၍ ဖြစ်သတည်း။ ။

## ဘယ်အစွဲနှင့် အလွဲထင်ပါလိမ့်

ဆရာတော် အရှင် ဇနကာ ဘိဝံသကား ...ဤသို့သော ဆရာတော်ပါပေ၊ တပည့်တို့ အပေါ်တွင် ဤသို့လျှင် ကြင်နာတော်မူတတ်၏, ဤသို့လျှင် မေတ္တာထားတော်မူတတ်၏။

ပိဋကတ်စာပေတွင် လာသည့်အတိုင်း ဆရာ တပည့် ဆက်ဆံရေးကို ကိုယ်တော်တိုင် ရုပ်လုံးဖော် ပြ၏၊ သာသနာ့ဝန်ထမ်းသား ဟူသမျှကိုလည်း သူက ဤသို့ မျှော်တော်မူသည်၊ သာသနာတော်ကြီး ဂုဏ်မြင့်အောင် မည်သို့ ဆောင်ရွက်ရမည်နည်း? ဟုလည်း စိတ်တစောစောဖြင့် တွေးတောနေသူ ဖြစ်၏။

သို့သော် ဤသာ ပြောထူ, သူ့အပေါ်တွင် မနာလိုသူတို့ကား ထိုအချိန်မျိုးမှာပင် တိုက်ခိုက် လျက် ရှိ၏၊ အခွင့်သင့်တိုင်း ထိုးနှက်လျက် ရှိ၏၊ မဟုတ်သတင်း လွှင့်ကြသည်၊ ဂုဏ်သတင်းမဲ့အောင် ပြောကြသည်၊ ဘယ်ကတည်းက ဘယ်အစွဲဝင်၍ အလွဲထင်ကြလေသနည်း။?...

ဤ အကြောင်းအရာများကို ဆရာတော်က... စာချရင်း အကြောင်းစပ်လာသဖြင့် မိန့်ကြားဖူး၏။

"အဲဒီတုန်းက ငါ့ကို လူထွက်သွားပြီတဲ့၊ သူတို့ သတင်း လွှင့်ကြတာ၊ ဂျပန်ခေတ်က စာတတ် ပေတတ် ကိုယ်တော်တွေလည်း တော်တော်များများ ထွက်ကြတာကိုး၊"

"ပြီးတော့ ငါ့အတွက် နောက်ဆက်တွဲက ပါသေး တယ်၊ လူထွက်တာမှ တကယ်တဲ့၊ မီးရထားသံလမ်း မှာတောင် အလုပ်တွေ လုပ်နေပြီတဲ့၊ ကျောက်ခဲတွေ ကို ဂေါ်ပြားကြီးနဲ့ ကော်ကော်ထုတ်နေတာ တွေ့တဲ့ လူက တွေ့ခဲ့သတဲ့"

"ဘယ်လောက်များလဲဆိုတာ လောကကြီးက စိတ်ပျက်စရာ"တဲ့။ ...

**သက်န်းဝတ်နှင့် အသေခံမယ်**

ထိုအချိန်တုန်းကပင် ဖြစ်သည်၊ မုံရွာ မိုးညှင်း (သမ္ဗုဒ္ဓေ) ရုံပိုင်ကတော်ကြီး စစ်ကိုင်းတောင်ရိုးသို့ ရောက်လာဖူး၏၊ ဆရာတော်ရေးသော စာအုပ်တွေကို ဖတ်ဖူးသဖြင့် ကြည်ညိုနေသူ ဖြစ်သည်၊ တစ်နေ့တွင် "အရှင်ဇနကာဘိဝံသဆိုတာကို ဖူးချင်စမ်းပါဘိ"ဟု ပြောရာ သီလရှင်ဆရာကြီးတစ်ဦးက "ညည်း...ဖူးချင်နေ, အဲဒီကိုယ်တော်ကဖြင့် မယားချောကလေးနှင့် လူတောင်ထွက်သွားပြီ၊ ခုလောက်ဆို သူတို့ ......"ဟု ပြောသတတ်၊ ထိုအခါ ရုံပိုင်ကတော်က "အို...လူထွက်သွားလည်း လူဝတ်နဲ့ပင် ဖူးချင်ပါသေးတယ်"ဟု ဆိုပြီး အမရပူရဘက်သို့ ရောက်အောင်လာလေ၏၊ သင်္ကန်းဝတ်လျက် ဆရာတော်ကို တွေ့ရသောအခါ ရုံပိုင်ကတော်ကြီးမှာ အားရဝမ်းသာ များစွာဖြစ်ရပါသတဲ့၊ စစ်ကိုင်းဘက်မှာ ပြောဆိုခဲ့ပုံ ဇာတ်ကြောင်းစုံကိုလည်း လျှောက်ထားပါသတဲ့။

ထိုအခါ ဆရာတော်က..."ကဲ-ဒကာမကြီး,ကဘုန်းကြီးအပေါ်မှာ ဒကာမကြီးက ဒီမျှလောက်ကြည်ညိုတယ်ဆိုရင် ဘုန်းကြီးကလည်း ဘုန်းကြီးရဲ့ဆုံးဖြတ်ထားချက် ခံယူချက်ကို ပြောပြလိုက်ပါ့မယ်၊ ဒီသာသနာမှာလေ ရှိသမျှ ကိုယ်တော်တွေ အကုန်လူထွက်ရမယ်၊ မထွက်လျှင် သတ်ပစ်မယ်လို့... အာဏာပိုင်တွေက အမိန့်ထုတ်တောင် ဘုန်းကြီးတစ်ပါးကတော့မထွက်ဘူး၊မထွက်ရလောက်အောင် သီလသိက္ခာကို လေးလေးစားစားနဲ့ နေမယ်၊ အခုဘဝ ကံကောင်းထောက်မလို့ ဝတ်ရတဲ့ ဟောဒီ သင်္ကန်းဝတ်နဲ့ အသေခံမယ်" ဟု မိန့်လိုက်လေသတည်း။

ရုံပိုင်ကတော်ကြီးသည်လည်း အားရဝမ်းသာ ပြန်သွားလေ၏၊ ဆရာတော် အရှင်ဇနကာဘိဝံသကားသူကိုယ်တိုင် ယခုဘဝ ကံကောင်းထောက်မ၍ ဝတ်ရုံခွင့်ရသော သင်္ကန်းကို မြတ်နိုး၏၊ တန်ဖိုးထား၏၊ လေးစား၏၊ သူ တန်ဖိုးထား လေးစား မြတ်နိုးသလောက် အခြားသော သင်္ကန်းဝတ်များကလည်း တန်ဖိုးထား လေးစား မြတ်နိုးစေချင်သည်။

သင်္ကန်းဝတ်ပုဂ္ဂိုလ်တိုင်းလည်း တန်ဖိုး ရှိစေချင်သည်၊ ကျက်သရေ ရှိစေချင်သည်၊ သိက္ခာရှိစေချင်သည်၊ မြင့်မြတ်စေချင်သည်၊ ဤသို့သော ပုဂ္ဂိုလ်မြတ်တစ်ပါးသာတည်း။

**လောကဓံမုန်တိုင်း, လေလှိုင်းထန်ထန်**

**လောကဓံသည်လေ, ပြေပြေပင် သွေးသွေး,**
**အေးအေးပင် ဖျော်ဖျော်, လျော်လျော်ပင် ဖျန်းဖျန်း,**
**ကြမ်းကြမ်းပင် ထန်ထန်, ပြန်ပြန်ပင် ပြန်းပြန်း,**
**မှန်းမှန်းပင် ချေချေ, ခွေခွေပင် တိုက်တိုက်,**
**ဝိုက်ဝိုက်ပင် ဇော့ဇော့, မရွေ့အောင် စိတ်ကို,**
**မြင်းမိုရ်ရွှေမဏ္ဍိုင်, ကြံ့ခိုင်ပုံအလား,**
**မှတ်သားသတိဆောင်, မြဲမြဲစွာ နှောင်နိုင်မှ,**
**မြင့်စခါင်တဲ့ အလုပ်ကြီး, အောင်မြင်လိမ့်မယ်အပြီး။**

ဆရာတော် အရှင် ဇနကာဘိဝံသသည် ဤသဘောတရားကို သတိထားတော်မူ၏၊ ဆရာတော့်ဘဝသည် လှိုင်းတံပိုးပြင်းထန်သော ရေလယ်မှ **လှေယော်နှင့် ပမာတူ၏**၊ လှိုင်းတံပိုးတို့၏ တွန်းထိုးလှုပ်ရှားမှုကို ခံရသည်၊ လှိုင်းအထပ်ထပ်တို့၏ ရိုက်ခတ်ခြင်းကိုလည်း ခံရသည်။

တစ်ဖန်တုံလည်း အရပ်မျက်နှာအားလုံးကို သိမ်းကျုံးဝေ့ဝိုက်၍ ယိမ်းထိုးအောင် တိုက်ခိုက်သော မုန်တိုင်းထဲက **ညောင်ပင်နှင့်လည်း ပမာတူ**လေသည်၊ မုန်တိုင်းလေသည် အများထက် ပို၍ မြင့်သော သစ်ပင်ကို ပို၍ တိုက်ခိုက်မြဲ ဖြစ်၏၊ ထို့အတူ အရှင်ဇနကာဘိဝံသကိုလည်း လောကဓံမုန်တိုင်းက ပို၍ တိုက်ခတ်သလို ထင်ရသည်။

**လောကဓံတရား ရှစ်ပါး တွေ့ကြုံ**

* လာဘော, အလာဘော၊ ယသော, အယသော၊ နိန္ဒာ, ပသံသာ၊ သုခ, ဒုက္ခ၊ ဤ လောကဓံရှစ်ထွေ မုန်တိုင်းလေသည် တိုက်ခိုက်ပေါင်း များလှချေပြီ၊ တစ်ခါတလေ ပြေပြေသွေး၏၊ တစ်ခါတလေ အေးအေး ဖြေဖျော်၏၊ တစ်ခါတလေ သင့်လျော်ရုံ ပက်ဖျန်း၏၊ တစ်ခါတလေတွင်ကား ကြမ်းကြမ်းတမ်းတမ်း, တစ်ခါတလေ အပြန်ပြန်

အလှန်လှန် တဖြုန်းဖြုန်း၊ တခါတလေ မှုန့်မှုန့်ညက်ညက် ကြေအောင် ချေတတ်၏၊ တစ်ခါတစ်လေ ခပ်စွေစွေတိုက်၍ တစ်ခါတလေ ခပ်ဝိုက်ဝိုက် ဝှေ့ရမ်းတတ်လေသည်။

မည်သို့ပင် ရှိစေ, မည်သို့ အခြေအနေနှင့် ကြုံရကြုံရ, မိမိဘဝ မိမိရဲ့ စိတ်ကို မြင်းမိုရ်အလား မရွေ့မရှားအောင် သတိတရားဖြင့် ထိန်းချုပ်ထားနိုင်ရမည် ဟူသည်ကို ဆရာတော် အရှင်ဇနကာဘိဝံသက လက်တွေ့ကျကျ ကျင့်သုံးတော်မူလိုက်သည်။

လောကစံလှိုင်းတံပိုးတို့ တွန်းထိုးသောအခါ ရေလယ်မှာ ရှိသော ကျောက်ဆောင်ပမာ မတုန်မလှုပ် ရပ်တည်၍ နေလိုက်၏၊ ဘဝမုန်တိုင်း ရိုင်းစိုင်းစွာ တိုက်ခတ်လာသောအခါတွင်လည်း မြင်းမိုရ်တောင်ကြီးပမာ မလှုပ်မရှားအောင် သတိထား၍ ကြံ့ကြံ့ခံလိုက်သည်၊ ဤသို့ ကျင့်သုံးခဲ့၍သာ ယခုအခါ ဤအခြေအနေမျိုးနှင့် ကြုံရခြင်း ဖြစ်ပေသည်။

**မုန်တိုင်းထဲက ဆရာတော်**

စစ်အတွင်းကာလတွင် အရှင်ဇနကာဘိဝံသ ဆရာတော်ကား လောကစံ ၈-ပါးရှိရာတွင် အဆိုးလောကစံ ၄-ပါးလုံးနှင့် အကန်ကြုံတွေ့နေရတော့၏၊ အစားအသောက် ဆင်းရဲခြင်း, အဝတ်ဆင်းရဲခြင်း, အနေအထိုင် ဆင်းရဲခြင်းတို့အပြင် အခြွေအရံ မရှိခြင်း, ကဲ့ရဲ့ရှုတ်ချခံရခြင်းတို့ပါ စုံအောင်တွေ့ရသည်၊ အစားအသောက်နှင့် ပတ်သက်၍ စစ်အတွင်းကာလ ဖြစ်သောကြောင့် မည်သည့်အရာမျှ လိုချင်ရာကို မရနိုင်၊ မုန့်ပဲသရေစာဟူသည်ပင် ရှားပါးလှချေ၏၊ မုန့်ဆီကြော်, ထန်းသီးမုန့်တို့လို မြန်မာမုန့်မျိုးပင် မမြင်ရသည်မှာ ကြာပြီဖြစ်၏။

သို့ဖြစ်၍ ပရိသတ်များ လူစု မကွဲသေးမီက တစ်နေ့တွင် ကိုရင်ကြီးနန္ဒိယကို ဆရာတော်က ဆန်မှုန့် အရှာခိုင်းသည် ဆို၏၊ **"အပ်အပ်စပ်စပ် ဖြစ်အောင် လုပ်ခဲ့"**ဟူ၍လည်း မှာလိုက်သေးသတတ်၊ ဆန်မှုန့် ရလာသောအခါ ကျောက်ပန်းတောင်း ထန်းလျက်အစီးတွေနှင့် ထန်းသီးမုန့်အလုပ်ခိုင်းရာ ဂျပ်ပိတုံး ထူခေါက်ခေါက်ကြီး ဖြစ်နေသော ဟူ၏။

အမှန်မှာ မုန့်ပွလာအောင် အပေါက် အပေါက်ဖြစ်လာအောင် ဆော်ဒါ စသောပစ္စည်းများ ထည့်ရမည်ကို မထည့်, ထည့်စရာလည်း မရှိ, ထည့်ရမည်ကိုလည်း မသိ ဖြစ်နေ၏၊ ကိုရင်နန္ဒိယ လက်ဖြစ်ထိုမုန့်ကိုပင် အာသာပြေ ဘုဉ်းပေးတော်မူသတတ်။

**အဝတ်နှင့်ဖိနပ် ဟူ၍ သုံးစွဲခဲ့ရ**

အဝတ်နှင့်ပတ်သက်၍လည်း ရှိသမျှကလေးကို ချွေချွေတာတာ သုံးစွဲနေရာမှ "စစ်ကြီးက ဘယ်တော့ ပြီးမယ် မသိနိုင်သေး"ဟုဆိုကာ လက်ရှိသုံးစွဲနေကျ နှစ်ထပ်သင်္ကန်းကြီးကို ခါးလယ်က ပိုင်းလိုက်၏၊ တစ်ပိုင်းကို နေ့စဉ်ခြုံ၍ ကျန်တစ်ပိုင်းကို လူထသူထ သွားတဲ့အခါ သုံးဖို့ဆိုပြီး သိမ်းထားလိုက်လေသည်။

တစ်ခါတွင်ကား စီးနေကျ ဖိနပ်ပါးပါးမှာ ခြေမအောက်က ခွက်၍ စားပြီးလျှင် အောက်သို့ ပေါက်သွားလေ၏၊ ဆရာတော်က "ဦးစန္ဒော ဖာပေးစမ်းပါ" ဟု ဆိုသဖြင့် ဖိနပ်ဟောင်း အတိုအစကို ရှာဖွေပြီးလျှင် အလွှာကို အောက်က ခံ၍ နာနတ်ပင်ကလျှော်ဖြင့် ချုပ်စပ် ဖာပေးရဖူးသည်ဟု ဆို၏။

"ဂျပန်စစ်အတွင်းက ဆရာတော် ဘယ်လောက် ဆင်းရဲသလဲဆိုတာ အဲဒါသာ ကြည့်ပေတော့၊ ဖိနပ်ကို ဖာပြီးစီးတယ်ဆိုတာ ကမ္ဘာမှာတောင် ရှိမှ ရှိပါလေစ"တဲ့။ ဆရာတော်ဦးစန္ဒောဘာသက ဤသို့ ပြန်လည် ပြောပြသဖြင့် ဆိုင်ရာ တပည့် ဒကာဒကာမတို့မှာမချည့်အောင် ဖြစ်ကြရ, စိတ်မသက်မသာအောင် ဖြစ်ကြရလေသည်။ ။

---

* **လာဘော**–လာဘ်လာဘ ပစ္စည်းဥစ္စာပေါများခြင်း၊ **အလာဘော**–လာဘ်လာဘ ပစ္စည်းဥစ္စာနွမ်းပါးခြင်း၊ **ယသော**–အခြွေအရံ ပေါများခြင်း၊ **အယသော**–အခြွေအရံ နည်းပါးခြင်း၊ **နိန္ဒာ**–ကဲ့ရဲ့ရှုတ်ချခံရခြင်း၊ **ပသံသာ**–ချီးမွမ်းမြှောက်ပင့်ခံရခြင်း၊ **သုခံ**–ကိုယ်စိတ်နှစ်ပါးချမ်းသာခြင်း၊ **ဒုက္ခံ**–ကိုယ်စိတ်နှစ်ပါးဆင်းရဲခြင်း။

# နှစ်ကြိမ်တိုင်တိုင် ကမ္ဘာ့စစ်မီးလျှံများ ဝါးမျိုခံရသော မြန်မာပြည်

၁၉၄၁-ခုနှစ် အင်္ဂလိပ်တို့အပြေး, ဂျပန်တို့အဝင်တွင် မြန်မာပြည်အရပ်ရပ် မြို့ကြီးမြို့ငယ် အသွယ်သွယ် ကမ္ဘာ့စစ်မီးလျှံများ ဝါးမျို လောင်မြိုက်ခြင်းခံရ၍ ပြာပုံဖြစ်ခဲ့ကြရ၏၊ ယခုတစ်ဖန် ၁၉၄၅-ခုနှစ်တွင် ဂျပန်တို့ အပြေး, အင်္ဂလိပ်တို့ ပြန်အဝင်တွင်လည်း ရဲရဲလျှံလျှံ မီးလောင်ခံရပြန်၍ ပြာပုံဖြစ်ကြရပြန်ပြီ၊ မြန်မာပြည်ကား နစ်နာလှ၏၊ လူမျိုးရေး, ဘာသာရေး, သာသနာရေး, စီးပွားရေး အားလုံး ပျက်စီးဆုံးရှုံးကြရသည်။ ဂျပန်တို့သည် စစ်ပန်းလာကြပြီဖြစ်၍ အမေရိကန်, အင်္ဂလိပ် မဟာမိတ်တို့၏ တုံ့ပြန်တိုက်ခိုက်မှုကို ကြံ့ကြံ့မခံနိုင်တော့ပေ၊ အရှေ့ဘက်သို့ ဦးတည်၍ ပြေးနေကြလေပြီ၊ မဟာမိတ်တပ်တို့ကလည်း ထက်ကြပ်မကွာ နောက်ကလိုက်၍ တိုက်ခိုက်နေကြပြီ။

၁၉၄၅-ခု နှစ်ဦးပိုင်းတွင် နောက်ကလိုက်လာသော အမေရိကန် ရေတပ်မကြီးသည် ပစိဖိတ်သမုဒ္ဒရာထဲရှိ "တာရာဝါး"ကျွန်းနှင့် "ဆိုင်ပန်"ကျွန်းတို့ကို တိုက်ခိုက်သိမ်းပိုက်ပြီးနောက် အခြေခံစခန်းများ ပြုလုပ်ထားလိုက်၏၊ ပြီးလျှင် ယင်းကျွန်းတို့မှ တစ်ဆင့် ဘီ-၂၆ ဗုံးကြဲလေယာဉ်ပျံကြီးများဖြင့် ဂျပန်ပြည်ရှိ မြို့ကြီးများပေါ်သို့ သွား၍ သွား၍ ဗုံးကြဲနေကြသည်။ ဂျပန်တို့ကလည်း ကိုယ့်တိုင်းပြည်တွင်း ရောက်လာသော ရန်သူတို့ကိုကား လက်မြှောက်၍ အရှုံးမပေးချေ၊ ထွေးခနဲ ထွေးခနဲ ကျလာအောင် အောက်မှ နေ၍ အမြောက်တို့ဖြင့် ပစ်၍ ပစ်၍ ချနေ၏၊ တကယ့်သတ္တိများပါပေ။

**ဆရာ့အခြေ ဘယ်လိုပါလိမ့်**

အချိန်ကား ၁၃၀၆-ခု တပို့တွဲလ (၁၉၄၅ - ခုနှစ် ဖေဖော်ဝါရီလ) ဆောင်းကာလသို့ ရောက်လာပြီ၊ ဆရာတော်သည် စစ်ဘေးစစ်ဒဏ်ကြားတွင် တစ်ပါးတည်း နေခဲ့သော်လည်း ရုံဖန်ရံခါ ဦးဇိနောရသ, ဦးသြဘာသ စသော တပည့်ကြီးများ ရောက်ရောက်လာတတ်၏၊ "ဆရာတော်တစ်ပါးတည်း ဘယ်လိုများနေပါလိမ့်"ဟူသော အတွေးများဖြင့် ဆရာတော်အားရှိအောင် ပေါ်ပေါ်လာကြခြင်း ဖြစ်ပေလိမ့်မည်၊ ထိုအချိန်မှာပင် ဦးစန္ဒောဘာသ, ဦးကဝိန္ဒတို့လည်း "ဆရာတော်တစ်ပါးတည်း အားငယ်နေမှာပဲ"ဟူသော သံယောဇဉ်ဖြင့် ရောက်လာကြပြန်၏၊ မန္တလေးအထက် စဉ့်ကူးမှ နေ၍ လှေဖြင့် စုန်ဆင်းလာကြသည်၊ ဆီနှစ်ပုံးလည်း ပါခဲ့၏။

ဆရာတော်က "ဆီနှစ်ပုံး များလွန်းပါတယ်, ဘုန်းကြီးတစ်ပါးတည်း နေတာ, တစ်ပုံးကို ပြန်ယူသွား"ဟု ဆိုသတတ်။

"မဟုတ်ပါဘူးဘုရား, ဆရာတော်အား ဆွမ်းချက်ပြုတ်ကပ်နေတဲ့ ကပ္ပိယများအတွက်လည်း ရည်မှန်းပါတယ်, သုံးနိုင်ပါတယ်ဘုရား"ဟု လျှောက်မှ ဆီနှစ်ပုံးကို လက်ခံသည် ဆို၏။

ဆရာတော်သည် မူလကပင် ငါးချဉ်စိမ်းသုတ်ကို ကြိုက်၏၊ ယခုအခါမျိုးတွင် ပို၍ သတိရသလောမပြောတတ်၊ "ဦးစန္ဒောတို့ ဆီမှာ ငါးချဉ်စိမ်း ရနိုင်မလား, အပ်အပ်စပ်စပ်နှင့် ရမယ်ဆိုရင်တော့ ယူခဲ့စမ်းပါ၊ မအပ်မစပ်ကြီးနှင့်ကတော့ မလုပ်နဲ့နော" ဟုလည်း မှာလိုက်သဖြင့် အပ်စပ်အောင် စီစဉ်ပြီးမှ ယူခဲ့ရဖူး၏၊ ရောက်သောအခါ ကြက်သွန်ဖြူဆီမွှေးသတ်၍ နံနံရွက်, ရှောက်ရွက်တို့ဖြင့် သုပ်ပြီး ဆီစိုစိုဖြင့် ကပ်ရာ ဆွမ်းတော်တော်များများ ဘုဉ်းပေးသည်ဟူ၏။ ။

**စွန့်တာနိပဲပြုတ်နှင့် မုန့်လာဥချဉ်ဖတ်**

ဆရာတော့် ဘဝကား ... အစားအသောက်နှင့် ပတ်သက်၍ ချို့ငဲ့ရှာ၏၊ စစ်အတွင်းက တပည့်ကြီး ဦးစန္ဒောဘာသမှာ မကြာမကြာ သွားချည် ပြန်လှည့် လုပ်နေခဲ့၏၊ ယခင်တစ်ပတ်လာတုန်းက ဆရာတော်နှင့်အတူ ဆွမ်းတစ်ပွဲတည်း ဘုဉ်းပေးရသည်၊ "ဆရာတော့်ဆွမ်းပွဲ" ဟူ၍ စာဖတ်သူက အထင်ကြီးပြီး မသွားလိုက်ပါလေနှင့်, ထူးထူးခြားခြား မဟုတ်ပါ၊ **"ယထာလာဘ**

**သန္တော သ**"ဟူသည့်အတိုင်း ရရာနှင့် ကျေနပ်စွာ ဘုဉ်းပေးနေခြင်း ဖြစ်သည်။

ထိုနေ့က ဆွမ်းပွဲမှာ ရွှေဘို မုံရွာနယ်က ထွက်သည့် စွန်တာနီပဲပြုတ် တစ်ခွက်, မုန်လာချဉ်ဖတ် တစ်ခွက် ပေါင်း ဤနှစ်ခွက်မျှသာ ဖြစ်၏၊ ချဉ်ဖတ်နှင့် တို့စရာ ငါးပိ ငံပြာရည် မပါချေ၊ မရှိ၍ မပါခြင်း ဖြစ်၏၊ "ဆရာတော် ဘယ်လိုများ ဘုဉ်းပေးမည်လဲ" ဟု ဦးစန္ဒောဘာသက ကြည့်နေမိသည်။

ဆွမ်းကို ခွံ့ပြီးနောက် မုန်လာချဉ်ဖတ်ကို ဝါးလိုက်, ပဲပြုတ်ကို ဝါးလိုက်၊ နောက်တစ်ဖန် မုန်လာချဉ်ဖတ်ကို ဝါးလိုက်, ပဲပြုတ်ကို ဝါးလိုက်ဖြင့် ဘုဉ်းပေးနေသည်၊ ဦးစန္ဒောဘာသကလည်း ဆရာတော့်နည်းအတိုင်း လိုက်၍ ဘုဉ်းပေးကြည့်သည်၊ ... ဆွမ်းလုတ် ဝမ်းထဲရောက်ဖို့ မလွယ်ကူလှချေ။

ထိုအခါ ဆရာတော်က မေးသည်၊ "ဦးစန္ဒော-အခုလိုစားနေတာ မဆင်းရဲဘူးလား"တဲ့၊ သည်တွင် ဦးစန္ဒောဘာသတလည်း "ဆင်းတော့ ဆင်းရဲပါတယ်ဘုရား, ဒါပေမယ့် ဘုန်းကြီးဘုရားတောင် ဒီလိုဘုဉ်းပေးနိုင်တယ်ဆိုတော့ တပည့်တော်တို့အတွက် ပြောဖို့ မလိုပါဘူးဘုရား"ဟူ၍သာ ပြန်၍ လျှောက်ရတော့သတတ်၊ ရင်ထဲ၌ကား မကောင်းလှ, ဆို့နင့်နင့်ကြီး ခံစားနေရသည် ဟူ၏။ ။

**အမဲသားဟင်း မစားတော့**

ထို့နောက်တစ်ဖန် ဆွမ်းစားပြီးသောအခါ အချို့ပွဲ အဖန်ပွဲ အဖြစ် ဘုဉ်းပေးဖို့ ရေနွေးအိုးထဲမှ လက်ဖက်ခြောက် ပြုတ်ဖတ်တို့ကို ဒကာလှမောင်က စုပေးရ၏၊ ပြီးမှ ဆီနည်းနည်းဆမ်း၍ ပဲခြမ်းနှင့်မွှေကာ သံပုရာရည်ပါ အနည်းငယ်ဖျန်း၍ ဘုဉ်းပေးပါလေတော့သည်၊ ကျောက်မဲလက်ဖက်, ဇရမ်းလက်ဖက်ဟု အမှတ်ပြုလျက် ဘုဉ်းပေးနေလေရော့သလား မပြောတတ်တော့ပါ။

တပည့်ကြီး ဦးစန္ဒောဘာသကား ဆရာတော်နှင့် နီးနီးကပ်ကပ် အချိန်များစွာ နေရသူဖြစ်၍ ဆရာတော်၏ အကြိုက်ကို သိထားသူ ဖြစ်သည်၊ ဆရာတော်သည် ငါးချဉ်စိမ်းကို ကြိုက်တတ်သလို ဘူးသီးနှင့် အမဲသားကိုလည်း ကြိုက်တတ်၏၊ ထို့ကြောင့် တစ်နေ့တွင် အပ်အပ်စပ်စပ်ဖြစ်အောင် စီမံ၍ ဒကာလှမောင်တို့ကို ချက်စေ၏၊ ရှားပါးသည့်ခေတ်တွင် အားရပါးရ ဘုဉ်းပေးစေချင်၍ ဘူးသီးအရောမပါဘဲ အမဲသားချည်း ပြောင်းအချက်ခိုင်းထားသည်၊ ဆွမ်းပွဲသို့ ရောက်သောအခါ ဆရာတော်လည်း အတော်များများ ဘုဉ်းပေးနေပါသတတ်။

ထိုအခိုက်တွင် ကျောင်းတိုက်အနီးသို့ သူ့ကိစ္စနှင့်သူ ရောက်လာသော ရဲအရာရှိတစ်ဦးက ဆရာတော့်ထံ ဝင်လာပြီး ဆွမ်းဘုဉ်းပေးနေသည်ကို ကြည်ညိုသောအားဖြင့် ခေတ္တရပ်လျက် ကြည့်သွား၏၊ ဤသည်ကို ဆရာတော်က စိတ်မလုံမလဲ ဖြစ်သွားရသည်။

ထို့နောက် "ယနေ့ ဆွမ်းဘုဉ်းပေး၍ မြိန်ပါရဲ့လားဘုရား"ဟု မေးလျှောက်သောအခါ "ဘုဉ်းပေးလို့တော့ ကောင်းပါရဲ့, ဒါပေမယ့် ရဲအရာရှိက လာပြီး ကြည့်တော့ အမဲသားဟင်းတွေနှင့် ဖြစ်နေလို့ ဘုန်းကြီး အတော် ရှက်သွားမိတယ်၊ နောက်တော့မှ ဆိတ်သားဟင်း ထင်သွားကောင်းပါရဲ့လို့ ကိုယ့်စိတ်ကိုယ် ဖြေလိုက်ရတယ်"တဲ့။

ဤသို့ဖြစ်ပြီး ဆရာတော်သည် အမဲသားဟင်းကို မစားတော့၊ ဘာ့ကြောင့်နည်း? မလုံမလဲ လုပ်ရသော အလုပ်ဟူသမျှ မကြိုက်၍, ပွင့်ပွင့်လင်းလင်း ဖြောင့်ဖြောင့်စင်းစင်း လုပ်ရသောအလုပ် မဟုတ်၍ ဟု အကြောင်းပြတော့သည်။

ထို့ပြင် မေတ္တာ, ကရုဏာ, မုဒိတာတို့နှင့် နေရမည့် လူကြီး လူကောင်းတစ်ယောက် (ဆရာတော်သမားတော်တစ်ပါး)အဖို့ အသားတွေ စားနေသည်မှာ မလျော်ဟုလည်း ယူဆဟန်ရှိသည်။ ။

**အနုမြူဗုံးအချမ်ရ၍ ကမ္ဘာစစ်ကြီးပြီးဆုံးခြင်း**

ကမ္ဘာ့ အရှေ့ဖျားတွင် အမေရိကန်လေယာဉ်တို့က ဂျပန်တို့ကို ဗုံးကြဲလိုက်, ဂျပန်တို့က အမေရိကန်လေယာဉ်တို့ကို ပစ်ချလိုက်နှင့် သူမလျှော့ ကိုယ်မလျှော့ ဖွဲကောင်းနေကြသည်၊ နှစ်ဖက်လုံးလည်း အတော်နာနေကြပြီ။

၁၉၄၅-ခုနှစ် ဩဂုတ်လ ၆-ရက်နေ့တွင်ကား အမေရိကန်လေတပ်က ဂျပန်ပြည် "ဟီရိုးရှီးမား"မြို့ပေါ်သို့ အဏုမြူဗုံးတစ်လုံး ချလိုက်ရာ လူပေါင်း-၇၀၀၀၀-ကျော် သေဆုံးပျက်စီးကြရ၏၊ မြို့ကြီးသည်လည်း မီးလောင်ပြာကျသွားလေသည်၊ စိတ်ချောက်ချားဖွယ်, ရှုးနောက်ဖွယ်ကြီး ဖြစ်၏၊ မြင်ကွင်းကြီးသည် ရုတ်ခြည်း ပြောင်းလွဲသွားသည် ဟူသတတ်။

ထို့နောက်တစ်ဖန် ဩဂုတ်လ ၉-ရက်နေ့တွင် "နဂါးစကီ"မြို့ပေါ်သို့ အဏုမြူဗုံးတစ်လုံး ချပြန်ရာ လူထောင်ပေါင်း သောင်းပေါင်းများစွာ သေကြေပျက်စီးကြရသည့်ပြင် မြို့ကြီးသည်လည်း ပြာပုံအတိဖြစ်သွားရပြန်၏၊ ဂျပန်တို့သည် အသည်းတုန်အောင် ကြောက်ရွံ့သွားကြရကုန်၏။

ဂျပန်တို့သည် အကြီးအကျယ် စိတ်ဓာတ်များကျဆင်းကာ ၁၉၄၅-ခုနှစ် ဩဂုတ်လ ၁၄-ရက် (မြန်မာသက္ကရာဇ် ၁၃၀၇-ခုနှစ် ဝါခေါင်လဆန်း ၆ ရက်)နေ့တွင် ခြွင်းချက်မရှိ လက်နက်ချ အရှုံးပေးလိုက်သောကြောင့် အာရှစစ်မျက်နှာတွင်လည်း ဒုတိယကမ္ဘာစစ်ကြီး ပြီးဆုံးသွားပြန်လေသည်။

ကမ္ဘာကြီးတစ်ခုလုံး တိတ်ဆိတ်သွားတော့၏၊ စစ်ပြီး၍ ရရှိသော အကျိုးတို့ကား လူသားတိုင်းပင် ရင်နင့်စရာ ကြေကွဲစရာ အသည်းနာစရာ နောင်တရစရာတို့ဖြင့် ရင်တွင်းအပြည့် နာကြည်းစွာ ခံစားကြရသည်၊ မျက်ရည်တို့သည် ငိုရလွန်း၍ ခန်းခြောက်ကုန်သလို ဖြစ်ကြတော့၏၊ လူသားတိုင်း၏ဘဝသည် ရစရာ မရှိ မွမွကြေခဲ့ကြကုန်ပြီ။

**စစ်ကြီး၏အရသာ ဘယ်မှာနည်း?**

အမိ အဖ ဆရာသမား သားသမီး ဇနီးမယား လင်သား ခင်ပွန်း ဆွေမျိုး မိတ်ဆွေတို့ သေကြပျက်စီးကြရ၏၊ သေကွဲ ရှင်ကွဲ အနည်းနည်းဖြစ်ကြရ၏၊ လယ်ယာမိုးမြေ ဆန်ရေစပါး ကျွဲနွားတိရစ္ဆာန်များစွာ တိုက်တာ အိုးအိမ် စည်းစိမ်ဥစ္စာ ရတနာဟူသမျှ ဆုံးပါးကြရ၏၊ အရသာ ဘယ်မှာနည်း? နာကြည်းစွာသောဒုက္ခ, ဖော်မပြနိုင်သော ဆင်းရဲခြင်းတို့သာ အကျိုးရကြကုန်၏။

နောက်ဆုံးကား ရင်တွင်းဆို့၍ သောက ပရိဒေဝတို့ဖြင့် မျက်ရည်စို့ခြင်းတို့သာ ကျန်ရစ်ကြသတည်း။

ထို့ကြောင့် ကမ္ဘာကြီးတစ်ခုလုံးသို့ အနံ့အပြားလျှောက်၍သွားကာ စနည်းနာမည်ဆိုပါလျှင် မိခင်ဖခင်တို့၏ ဆန္ဒများမှာ "ဤကမ္ဘာစစ်ကြီးမျိုး နောင်တွင် ဘယ်သောအခါမျှ မတွေ့ပါရစေနှင့်၊ သားစဉ်မြေးဆက် အဆက်ဆက်လည်း ဤစစ်ကြီးမျိုး မတိုးမကြုံရပါစေသောဝ်"ဟု ဆုတောင်းနေကြသံကို ကြားရမည်သာတည်း။

စင်စစ်သော်ကား မေတ္တာ, ကရုဏာ, မုဒိတာ, ဗြဟ္မစိုရ်တရား ကိုယ်ချင်းစာတရားများကသာ ဤစစ်ကြီးမျိုးကို ဟန့်တားနိုင်မည်သာတည်း၊ ဗြဟ္မစိုရ်တရားများ မရှိသေးသမျှ စိတ်မချရသေးချေ၊ သို့ဖြစ်၍ ကမ္ဘာအလုံး ဗြဟ္မစိုရ်တရားတွေ ဖုံး၍ အားလုံးချမ်းမြေ့ကြပါစေ။

### အိမ်သူမ၏ ဆို့နင့်သောဆုတောင်း

၁။ တပည့်တော်မ, ချစ်ခင်လှ၍, သက်မျှမှတ်ထင်, အိမ်နတ်လင်လည်း, ကြုံအင်ဆိုးညစ်, ကမ္ဘာစစ်တွင်, မွန်းနစ် ပျက်စီးခဲ့ပြီဘုရား။

၂။ အသက်မက, ချစ်ခင်ရသည့်, သားလှရင်သွေး, ပုလုကွေးလည်း, ဗုံးဘေးသင့်ကာ, စစ်ဗျူဟာတွင်, သက်တာ ကြွေခဲ့ပြီဘုရား။

၃။ မိဘနှစ်ပြာ, သည်းပွတ်မြှာတို့, ဂုဏ်ဝါအဏ္ဏဝ, အနန္တလည်း, အန္တရကပ်ဆိုး, မီးလျှံမိုးတွင်, ကံဆိုးခဲ့ကြရှာပြီဘုရား။

၄။ အတူ မရှိ, မြတ်မုနိအား, တပည့်တော်မ, မျက်ရည်စပြင့်, စယ ကပ်စွေ, တုပ်ဝပ်လေပြီ။

၅။ များထွေသတ္တဝါ, ဝေနေယျာတွက်, ကမ္ဘာစစ်အား, ရှင်ဘုရားသည်, သနားမေတ္တာ, ကရုဏာဖြင့်, တားကာ ဆီးကာ, ပေးတော့ပါဟု, ပန်ထွာရှိခြောင်း, ဆယ်လက် ပေါင်း၍, ဆုတောင်း ဦးညွတ်ပါသည်ဘုရား။ ။

# ပြန်လည်ထူထောင်ရေးလုပ်ငန်းများ

**အားသစ်ပျိုး၍ ကြိုးစားကြရှိန်**

"ကမ္ဘာ့အရှေ့ဖျားအနောက်ဖျား အားလုံးတွင် အပစ်အခတ်များ ရပ်ကြ၍ ဒုတိယကမ္ဘာစစ်ကြီးကို အဆုံးသတ်လိုက်ပြီ"ဟု ကြေညာသောအခါ လူတို့သည် ပုန်းအောင်း ခိုလှုံနေကြရာမှ အရှိ အရှိ ထွက်လာကြကုန်၏၊ မြန်မာပြည် အရပ်ရပ် မိမိတို့နှင့် စပ်ရာ ဆိုင်ရာ တောလက် ကျေးရွာများသို့ သွားရောက် ပုန်းအောင်းနေသူတို့လည်း ဌာနရင်းသို့ ပြန်လာကြလေပြီ၊ သူတော်ကောင်းတို့ ကိန်းအောင်းမွေ့လျော်ရာ ဘုန်းကြီးကျောင်းများမှလည်းကောင်း၊ အထက်မြန်မာပြည်တွင် စစ်ကိုင်း မင်းကွန်း မင်းဝံတို့လို တောင်တန်း လှိုဏ်မြောင်တို့၌ ခိုလှုံနေရာမှလည်းကောင်း မိမိတို့ရွာ အိမ်ဂေဟာများသို့ တဖွဲဖွဲ ပြန်လာနေကြလေပြီ၊ ပြီးလျှင် ပျက်စီး မီးလောင်ခဲ့ကြသော ပြာပုံတို့ကို ရှင်းလင်းခြင်း၊ သောက်ရေတွင်း သောက်ရေကန်တို့ကို ပြန်လည်ပြုပြင်ခြင်း၊ အလွယ်တကူ ခိုလှုံဖို့ရာ အရိပ်တကဲ တဲအိမ်တို့ကို ထိုးခြင်းတို့ဖြင့် လူတို့သည် လှုပ်လှုပ်ရွရွနှင့် အလုပ်များနေကြသည်။

ရန်ကုန် မန္တလေးတို့လို မြို့တော်ကြီးများ၌ အစိုးရများက ဦးဆောင်၍ ယာယီဈေးများ ပြန်လည် ဖွင့်လှစ်ခြင်း၊ အရောင်းအဝယ်များ ပြုလုပ်လာကြခြင်းတို့ဖြင့် ပြန်၍ အရှိန်ပျိုးနေကြသည်၊ ပျက်စီးပြိုကွဲခဲ့ရသော မြို့ ရွာတိုင်းလို ပြန်လည်ထူထောင်ရေးတွေ လုပ်နေကြရကုန်၏၊ ဤစစ်ကြီးကြောင့် သာသနာရေးဘက်၌ ပြန်လည်အစားထိုး၍ မရနိုင်သော ရှေးဟောင်း အနုပညာလက်ရာ ဘာသာရေး အဆောက်အအုံများလည်း မီးထဲ ပါသွားကြရ၏၊ စစ်မီးလျှံ၏ဝါးမျိုခြင်းကို ခံလိုက်ကြရသည်။

စစ်ကြီးကြောင့် အပြင်ပိုင်း ရုပ်ဝတ္ထုတွေ မီးလောင် ပြာကျ ပျက်စီးဆုံးရှုံးရသလို အတွင်းပိုင်း ကိုယ်ကျင့်စာရိတ္တများ၊ စိတ်ဓာတ်များ၊ ယဉ်ကျေးမှုများလည်း ပျက်ပြားကုန်ကြရသည်၊ ဤသည်တို့ကို ယခုအခါ အားသစ်ပျိုး၍ ပြန်လည်ထူထောင်နေကြရလေပြီ။

**မဟာဂန္ဓာရုံ၌ ပျိုးခင်းစ၍ကြ**

အချိန်အားဖြင့် ၁၃၀၇ - ခုနှစ် သီတင်းဝါလ ကျွတ်လေပြီ၊ စစ်အတွင်းက (ကျန်းမာရေးလည်း ချို့ယွင်း၊ မွေးချင်းများလည်း ရှိရာ) ရန်ကုန်အနီးက မှော်ဘီသို့ လိုက်ပါကြွရောက်သွားခဲ့သော အတိသုခ ဆရာတော်ဘုရားကြီးသည် ပြန်လည် မရောက်လာနိုင်တော့။

အဘယ့်ကြောင့်ဆိုသော် ကြွသွား၍ တစ်နှစ်ကျော် အကြာတွင် ပျံလွန်တော်မူသွားသောကြောင့် ဖြစ်ပေသည်၊ ယခုအခါ မဟာဂန္ဓာရုံတိုက်တာကို ဆက်လက်အုပ်ချုပ်ရန်မှာ ဆရာတော် အရှင်ဇနကာဘိဝံသ၏ တာဝန်သာ ဖြစ်ချေတော့၏။

လူတို့ဘက်၌ မြို့ရွာ အသီးသီး ပျက်စီးခဲ့သမျှ ပြန်လည် ထူထောင်ရေးတွေ လုပ်ကြသလို ရဟန်းတော်တို့ဘက်၌လည်း ကိုယ့်ကျောင်းကိုယ့်ကန် ပြန်ကြပြီးလျှင် စာပေသင်ကြားခြင်းအလုပ်၊ ပို့ချခြင်းအလုပ်တို့ကို ပြုလုပ်ကြဖို့ စီမံနေကြလေပြီ၊ ထိုအထဲတွင် အရှင်ဇနကာဘိဝံသ ဆရာတော်လည်း တစ်ပါးအပါအဝင် ဖြစ်၏။

မန္တလေးမှ အမရပူရသို့ ပြောင်းရွှေ့လာခဲ့သည့် ရည်ရွယ်ရင်းမှာပင် သာသနာတော်အတွက် မိမိစိတ်ကြိုက် ဆောင်ရွက်၍ အကောင်အထည်ဖော်ဖို့ရန် မှန်းခဲ့ခြင်း ဖြစ်၏၊ သို့သော်လည်း ဒုတိယကမ္ဘာစစ်ကြီးနှင့် တိုးနေ၍ ဘာမျှ မလုပ်နိုင်ခဲ့ခြင်း ဖြစ်သည်၊ ယခုအခါကား ဆောင်ရွက်ဖို့ရန် အချိန် ရောက်လာလေပြီ။

ဒုတိယကမ္ဘာစစ်ကြီး ငြိမ်းအေးပြီးနောက် ... သီတင်းကျွတ်သို့ ရောက်သောအခါတွင် ဆရာတော် အရှင်ဇနကာဘိဝံသ၏ တပည့်ဟောင်းများသည် တစ်ပါးချင်း တစ်ပါးချင်း ပြန်လည်ရောက်လာနေကြပြီ၊ ဦးစန္ဒောဘာသ၊ ဦးကဝိန္ဒတို့ ရောက်လာကြ၏၊

ကိုရင်ဉာဏောဒယလည်း ပြန်လာသည်၊ စစ်ကိုင်းမှ ဦးဣန္ဒာစရိယလည်း တိုးလာသည်၊ ဦးဣန္ဒာစရိယကား မန္တလေးမှာတုန်းကပင် ဆရာတော်ထံသို့ လာလိုက် ပြန်လိုက်နေခဲ့သူ ဖြစ်၏၊ နောက်ထပ် ဆည်သည်ရွာမှ ဦးဝရဗုဒ္ဓိတို့လည်း လာကြ၏၊ ဦးသြဘာသနှင့်ကိုရင်နန္ဒိယတို့လည်းပြန်လာကြသည်။

မန္တလေးမှ အစကတည်းက ပြည်တော်ပါတပည့်ကြီး **ဦးဇိနောရသ**ကား ပြန်လည်မရောက်လာနိုင်တော့ပါ၊ အကြောင်းမှုကား ၁၃၀၆-ခုနှစ်ကတည်းကပင် လူဝတ်လဲသွားသောကြောင့် ဖြစ်ပေသည်။*

ဆရာတော် အရှင်ဇနကာဘိဝံသသည် ရောက်လာသမျှ တပည့် ပရိသတ် အနည်းငယ်မျှဖြင့် လုပ်ငန်းစလေသည်၊ လုပ်ငန်း စရာတွင် မိမိစိတ်ကြိုက် မိမိစိတ်ကူးထားသည့် ပုံစံအတိုင်း အောင်ဝင်အောင် အစီအစဉ်ချ၍ "သာသနာ့ပျိုးခင်း"ကြီး လေသည်၊ ပျိုးခင်းမှ ပျိုးပင်များ အရွယ်ရောက်လျှင် သာသနာ့လယ်မြေ အနှံ့ဖြစ်ရန် ဖြစ်သတည်း။ ။

**အနှစ် ၂၀–ကျော်က အမြော်အမြင်**

အမရပူရ မဟာဂန္ဓာရုံ ကျောင်းတိုက်၌ တိုက်ပိုင်ဆရာတော်ကြီး ဖြစ်တော်မူသော အတိသုခဆရာတော်ကြီး, ဘုန်းတော်ကြီး ဦးသီလဝံသ, ဘုန်းတော်ကြီး ဦးကောဏ္ဍညတို့ စစ်အတွင်းက ပျံလွန်တော်မူကုန်ကြသောအခါ တိုက်တာကြီးကို ဆက်လက် အုပ်ချုပ်ထိန်းသိမ်းဖို့ တာဝန်မှာ ဆရာတော် အရှင်ဇနကာဘိဝံသ၏ ပခုံးပေါ်သို့ ရောက်လာတော့သည်၊ နောက်ကြောင်းပြန်၍ တွေးလျှင် လွန်ခဲ့သော ၂၅-နှစ်ကျော်က ဖြစ်၏၊ ကိုရင်ဇနက အသက် ၂၀-ပြည့်လု၍ ရဟန်းခံဖို့ရန် (မြောင်းမြဆရာတော်လောင်း) ဆရာဘုန်းတော်ကြီးက စီစဉ်သောအခါ စစ်ကိုင်းတောင်ရိုး ချမ်းအေးဆရာတော်ကြီးနှင့် မဟာဂန္ဓာရုံဆရာတော်ကြီးတို့က ဤသို့ မြော်မြင်တော်မူကြပါသတဲ့။...

"ကိုရင်က ကျောင်းတိုက်တည်ပြီး ဆရာတော်လုပ်နိုင်လောက်အောင် အရည်အချင်း ရှိနေတယ်၊ ပလိပ်က **မိပု** က ပစ္စည်းအားထက် သဒ္ဓါအားကပိုကောင်းတယ်၊ ကျောင်းတိုက်တည်ပေးနိုင်ဖို့ မလွယ်ဘူး၊ ဒီတော့ ပစ္စည်းလေးပါး ဒကာမလည်း ဖြစ်, ဂန္ဓာရုံ ကျောင်းအမလည်း ဖြစ်တဲ့ အမရပူရမြို့ တရုတ်တန်းက ဒကာမ **ကြည်**နှင့် ဒကာမ **ညွန့်** တို့ ညီအစ်မကိုလည်း ရဟန်းအမ လုပ်ခိုင်းဦးမှ တော်မယ်၊ ဒါကြောင့် ငယ်စဉ်က ကြည်ညိုရင်စွဲ ရှိတဲ့ ပလိပ်မြို့က ဒကာမ မိပုကို ငဲ့ညှာထောက်ထားရာ ရောက်အောင် မိပုက ပထမ, အမရပူရ(တောင်မြို့) ကျောင်းအမများက ဒုတိယ, သရိုင်ရွာမှ မိဘရင်း ဒကာကြီး ဒကာမကြီးများက တတိယ"ဟု ရဟန်းခံဖို့ အစီအစဉ်ကို ချပေးတော်မူကြပါသတတ်။

ယခုအခါ ထိုစဉ်က ဆရာတော်ဘုရားကြီးတို့၏ အမြော်အမြင်သည် ပီပီပြင်ပြင် တည့်တည့်ကြီး ရောက်ရှိလာလေပြီ၊ အရှင်ဇနက ဒုတိယအကြိမ် သိက္ခာထပ်ခဲ့သော ကျောင်းတိုက်, မိမိ၏ ပစ္စည်းလေးပါး ရဟန်းအမများက ထောက်ပံ့နေသော ကျောင်းတိုက်၊ ဤကျောင်းတိုက်ကိုပင် ယခုအခါ အုပ်ချုပ်နေရလေပြီ၊ ထိုဆရာတော်ဘုရားကြီးနှစ်ပါးတို့၏ ဉာဏ်တော်သည် အနာဂတ်ကို မြော်ခေါ်၍ မြင်တော်မူနိုင်စွမ်း ရှိပါပေစွ။ ။

**ပန်းခင်းလမ်း မဟုတ်ခဲ့ပါ**

ဤသို့လျှင် ကျောင်းတိုက်တာကို ကိုယ်တိုင်အုပ်ချုပ်ရသည့် ဘဝသို့ ရောက်လာသော်လည်း... ပြည့်စုံလုံလောက်မှုကား မရှိရှာသေး၊ ဆရာတော့်ဘဝကား သာတောင့်သာယာ မဟုတ်ပေ၊ ပန်းခင်းသောလမ်း မဟုတ်ပေ၊ ဆူးငြောင့်ခလုတ်တို့ဖြင့် ပြွမ်းသော ခရောင်းတောလမ်းသဖွယ်သာ ဖြစ်သည်၊ တပည့်သံဃာ ၆-ပါး,၇-ပါးဖြင့် လုပ်ငန်းစ၍နေသော်လည်း နေရာထိုင်ခင်း မပြည့်စုံခြင်း, အဆောက်အအုံနည်းပါးခြင်း, အသုံးအဆောင် မလုံလောက်ခြင်း,

---

* **ဦးဇိနောရသ**သည် လူဝတ်ပြောင်း၍ ဦးစံခင်ဘဝသို့ ရောက်သွားလေ၏၊ ဦးစံတင်ဘဝဖြင့် ဓမ္မာစရိယအောင်သည်၊ လူ့ဘဝသို့ရောက်နေသော်လည်း ဆရာသမား၏ဂုဏ်ကျေးဇူးကြောင့် သာသနာစိတ်များ ကိန်းဝပ်လျက်ရှိနေ၏။

စားရေးသောက်တာ ချို့တဲ့ခြင်းတို့ဖြင့် ပြွမ်းလျက်ရှိနေ၏၊ ဆွမ်းစားသောအခါ ရေနွေးကြမ်းဖြင့်တွဲ၍ ဘုဉ်းပေးလေ့ရှိသည်၊ တပည့်သံဃာ ၆-ပါး ၇-ပါးမျှဖြင့် စု၍ ဘုဉ်းပေးနေသော ဆွမ်းပွဲတွင် ရေနွေးထည့်စရာ လှယ်ကရားမရှိ သို့ဖြစ်၍ ရေနွေးအိုးထဲမှ သပိတ်ဖုံးထဲသို့ ထည့်၍ ပက်လက်ထားကြသည်။

တစ်နေ့တွင် အမရပူရမြို့ထဲက သီလရှင်ဝတ်နေသော ဆရာမကြီးတစ်ဦးသည် ကိစ္စတစ်ခုဖြင့် ရောက်လာ၏၊ ဆွမ်းပွဲတွင် ရေနွေးထည့်စရာ လှယ်ကရား မရှိ၊ သပိတ်ဖုံးဖြင့် ထည့်ထားသည်ကို တွေ့သွား၍ ဈေးနားက သံဖြူဆိုင်သို့ သွားပြီးလျှင် နို့မှုန့်ဘူးကြီးတစ်ခုကို သံဖြူဆရာဖြင့် ကိုင်းတပ်ဆင်၏၊ ပြီးမှ "လှယ်ကရားအဖြစ် အသုံးပြုပါ"ဟု ဆိုကာ လာ၍ လှူဖူးသည်။ ။

## မွေးမိခင်ကို ပြုစုယုယရှာ

စစ်ကြီး ပြီးစတွင် မွေးမိခင်ကြီး ဒေါ်အုန်းလှိုင် အမရပူရ ဂန္ဓာရုံသို့ ရောက်လာ၍ ခေတ္တနေထိုင်သွားသည်၊ စစ်ကြီးအတွင်းက သွားရေး လာရေး အခက်အခဲတွေကြောင့် သားနှင့် ကွဲပြီး မတွေ့ရသည်မှာ ကြာ၍ ရင်တွင်းအပြည့် မချည့်ဆွမ်းဆွတ်သောကြောင့် ရောက်လာခြင်း ဖြစ်သည် ဟူသတတ်၊ ဤသို့ပင်လျှင် မိခင် ဖခင်တို့၏ အေးမြသော နှလုံးသား မေတ္တာရေစင်တို့ကား သားသမီးတို့ အပေါ်၌ ဘယ်သောအခါမျှ မခန်း၊ ဘယ်သောအခါမျှ မန္တမ်း၊ လန်းဆန်းလျက်သာ အမြဲတည်း၊ ဆရာတော်ကလည်း ရောက်လာသော မွေးမိခင်ကြီးအား စွမ်းနိုင်သမျှ ပြုစုယုယရှာပါ၏၊ မိခင်ကြီး စိတ်ချမ်းသာအောင် တရားနှင့်အညီ အရာရာ လိုက်လျောရှာပါ၏။

သို့ရာတွင် မပြည့်မစုံ ရှားပါးသောအခါကြီး ဖြစ်နေ၍ မိခင်ကြီး ဆေးလိပ်ငသောက်ရာတွင် မီးညှိဖို့ မီးခြစ်ပင် ပေးစရာ မရှိရှာ၊ သို့ဖြစ်၍ ဆရာတော်ကိုယ်တိုင် မီးဖိုသွားပြီး ဆေးလိပ် မီးတို့ပေးသည်ဟူ၏၊ ကိုယ်တော်တိုင်ကား တစ်ရှူမျှ မရှူ၊ တစ်ဖွာမျှ မဖွာ ဟူသတတ်၊ ဤမျှပင် မိခင်ကြီးအပေါ် အရေးပေးတော်မူရှာပေသည်၊ အရေးပေးထိုက်၍ ပေးခြင်းဖြစ်၏။

ဆိုထိုက်ပါသည်၊ မိဘနှင့်သားသမီးတို့ဟူသည်မှာ အစဉ်ထာဝရ အေးမြစိုရွှန်း၊ မခန်းသောမေတ္တာ၊ မန္တမ်းသော ကရုဏာ၊ ဝမ်းမြောက်လိုလားသော မုဒိတာတို့ဖြင့် အခြေခံကာ ခိုင်မာစွာ ဖွဲ့စည်းတည်ဆောက်ထားသည့်ပြင် မိခင် ဖခင်တို့ဆိုတာ ... တစ်ဘဝ တစ်သက်တာ၌ ရှားပါးသော ပစ္စည်းများသဖွယ်လည်း ဖြစ်ကြ၏။

ထို့ကြောင့် သား သမီးတို့အနေဖြင့် **"အမေ"**ဟူ၍ ခေါ်ရသော အခွင့်, **"အဖေ"**ဟူ၍ ခေါ်ရသောအခွင့်ရခြင်းသည်ပင် အားရစရာကောင်းလှသည်ဟု ဂုဏ်ယူကြ၏၊ ထို့ပြင် "အမေ"ဟူ၍ ခေါ်ရသောအရသာ, "အဖေ"ဟူ၍ ခေါ်ရသော အရသာထက် သာလွန်သော အေးမြချမ်းမြေ့သော အရသာလည်း ရှိနိုင်အံ့မထင်ဟု ဆိုကြသည်၊ ထို့ကြောင့်လည်း ရှေးပညာရှိတို့က ဤသို့ မှာခဲ့ကြခြင်း ဖြစ်ပါလိမ့်မည်။

**မိခင် ဖခင်, ကျေးဇူးရှင်ကို,**
**ချစ်ခင်မြတ်နိုး, ဂူပထိုးသို့,**
**ရှိခိုးဦးတင်, ကြည်လင်မြတ်လေး,**
**သိမ်းမြန်းမွေး၍, လုပ်ကျွေးခယ,**
**ရိုတုပ်ကွလျက်...** (လောကသာရဆုံးမစာမှ)

မိခင်ကြီးဒေါ်အုန်းလှိုင်သည် အလွမ်းပြေအောင် ဂန္ဓာရုံ၌ ရက်အတန်ကြာ နေထိုင်ပြီးနောက် သားကြီးအား နှုတ်ဆက်၍ သရိုင်ရွာသို့ ပြန်သွားခဲ့၏၊ ကျန်သားသမီးများနှင့်အတူ နေထိုင်သည်။

ဤသို့လျှင် မိခင်ကြီးအနေနှင့် သာသနာတော်အတွက် လောက်လောက်လားလား သားကြီးတစ်ယောက် ဖွားမြောက်ပေးခဲ့ရသောကြောင့် ကျေနပ်မှုကြည်နူးမှု အပြည့် ရှိနေမည်မှာ အမှန်ပင် ဖြစ်ပါ၏၊ ဤသို့သော ကြည်နူးမှုဖြင့် ကျေနပ်နေစဉ်မှာပင် ၁၃၀၉-ခုနှစ်ထဲ၌ ကွယ်လွန်သွားရှာသည်။

ဖခင်ကြီး ဦးဇောတိမှာကား စစ်ကြီး မဖြစ်မီ (အသက် ၅၂-နှစ် အရွယ်) ကဝင် သရိုင်ရွာ၌ ကွယ်လွန်ခဲ့ရှာပြီ။ ။

# ခါးတောင်းကျိုက် မဖြုတ်ကြသေးတဲ့ ဆက်လက်အားခဲ

**လွတ်လပ်ရေးအစစ်ဖြစ်ဖို့** မြန်မာပြည်တွင်းမှ ... ဂျပန်တို့ ပြန်ပြေးကုန်ကြသော်လည်း အင်္ဂလိပ်တို့က ပြန်ဝင်လာကြပြန်၏၊ ရှေးယခင်ကလို အရင်းရှင်နယ်ချဲ့စနစ်ဖြင့် အုပ်ချုပ်ရန် ကြိုးစားကြသည်၊ သို့သော်လည်း ဗိုလ်ချုပ်အောင်ဆန်း ခေါင်းဆောင်သော "ဖ-ဆ-ပ-လ" အဖွဲ့က တိုင်းပြုပြည်ပြုလွှတ်တော်ခေါ်ပေးရန်နှင့် မြန်မာပြည်ကို အချုပ်အခြာအာဏာပိုင်နိုင်ငံဟု အသိအမှတ်ပြုရန် အင်္ဂလိပ်အစိုးရထံ တောင်းဆိုကြတော့သည်၊... ထိုအခါ အင်္ဂလိပ်တို့အနေဖြင့် ဆက်လက်အုပ်ချုပ်စိုးမိုးရန် လမ်းစမမြင်ကြတော့သဖြင့် တိုင်းပြုပြည်ပြုလွှတ်တော်ခေါ်ယူရန် အခွင့်ပေးရတော့၏။

ဤသို့လျှင် မြန်မာပြည်၌ မြန်မာ့ခေါင်းဆောင်တို့က တိုင်းပြည်အတွက် ခါးတောင်းကျိုက်မဖြုတ်ကြသေးဘဲ ဆက်လက် အရေးဆို ကြိုးစားနေကြဆဲတွင် ရဟန်းသံဃာတော်တို့ဘက်တွင်လည်း ယိုယွင်းပျက်ပြားလာခဲ့ကြသော သာသနာရေး ဘာသာရေး စာရိတ္တရေး ယဉ်ကျေးမှုတို့အတွက် မည်သို့ ဖြည့်စွက်ရမည်နည်း?ဟု ကြံစည် တွေးဆ ဆောင်ရွက်ဖို့ အားယူနေကြလေသည်။

ဆရာတော် အရှင်ဇနကာဘိဝံသသမှုကား... သာသနာရေးအတွက်သာမက တိုင်းပြည်အတွက် လူမျိုးအတွက်ပါ အပိုအဆစ် ထည့်၍ တွေးနေမိသည်၊ "တို့မြန်မာပြည် မကြာမီ လွတ်လပ်ရေးအစစ်ရတော့မည်၊ အချုပ်အခြာအာဏာပိုင်နိုင်ငံ ဖြစ်လာတော့မည်၊ လွတ်လပ်သော မြန်မာနိုင်ငံအပေါ်မှာ ထွတ်မြတ်သော သာသနာတော်ကို သရဖူအဖြစ် တင်ရလျှင် ဘယ်လောက် ကျက်သရေရှိလိုက်မည်နည်း၊ ကမ္ဘာကို သာသနာဖြင့် သိစေမှ ပို၍ အထက်တန်းကျမည်"ဟု တွေးနေမိသည်၊ တစ်ဖန် "ထွတ်မြတ်သောသာသနာ" ဖြစ်နေအောင်ကလည်း ရဟန်း သံဃာတော်များဘက်က စနစ်ကျသော, စည်းကမ်းသေဝပ်သော, သန့်စင်သော သာသနာ ရှိနေအောင်ကြိုးစားကြရမည်၊ သို့အတွက် သာသနာ့ဝန်ထမ်းသား ရဟန်းသံဃာတော်များ တိုင်းပြည်ပြန်လည်ထူထောင်ရေးတွင် တစ်တပ်တစ်အား ပါဝင်ရမည်ဟု သဘောပေါက်ထား၏။

**သာသနာ့အရေး ဒို့အရေး** ဤသို့တွေးနေရင်းက "တိုင်းပြည်လွတ်လပ်လျှင် သာသနာတော်လည်း ထွတ်မြတ်နေအောင် ယခုနှယ်က ပြင်ဆင်ထားရမည်"ဟု ဆုံးဖြတ်ချက်ချလိုက်၏၊ ဆုံးဖြတ်ချက်အတိုင်းပင် မဆိုင်းမတွ ကိုယ်တိုင်လည်း စ၍ လက်တွေ့ပြုပြင်၏၊ နောင်လာမည့် အနာဂတ်ကာလတွင် သာသနာတော်၌ ဖြစ်သင့်သည့် အခြေအနေကို ညွှန်ပြသော "လမ်းညွှန်စာအုပ်"ထုတ်ဝေသင့်သည်ဟုလည်း တွေးထား၏။

တိုင်းပြည်ခေါင်းဆောင် လူတို့ဘက်က "မြန်မာ့လွတ်လပ်ရေး ဒို့အရေး" "အချုပ်အခြာအာဏာပိုင်နိုင်ငံဖြစ်ရေး ဒို့အရေး" "မြန်မာနိုင်ငံ ပြန်လည်ထူထောင်ရေး ဒို့အရေး" စသည်ဖြင့် ဟစ်ကြွေးကြသလို ရဟန်းသံဃာတော်များဘက်မှ အရှင်ဇနကာဘိဝံသကလည်း အနာဂတ်ကာလတွင် ဖြစ်ပေါ်လာရမည့် "သာသနာ့အရေး ဒို့အရေး"ဟု ဟစ်ကြွေးသည့်ပမာ အားမာန်တင်းကာ ထားလိုက်သည်။

ဤသို့ အသင့်အနေအထားဖြင့် အလုပ် လုပ်နေစဉ် ၁၃၀၇-ခုနှစ် နတ်တော်လထဲသို့ ရောက်လာခဲ့၏၊ တစ်နေ့တွင် ကျေးဇူးရှင် မြောင်းမြဆရာတော်ကြီးနှင့် ကျွန်းကုန်းဆရာတော်ကြီးတို့ ဦးဆောင်၍ ဒကာကလေး သခင်ထိန်ဝင်းတို့ ရောက်လာကြသည်၊...ဆရာတော်ကြီးများ ရောက်လာခြင်း၏ အကြောင်းမှာ နှစ်ခု သုံးခုမျှ ရှိသော်လည်း ဒကာကလေး သခင်ထိန်ဝင်း၏ လျှောက်ထားချက်သည် အရေးကြီးသော အကြောင်းတစ်ခုအဖြစ် ပါဝင်၏၊ ယင်းမှာ...

"ဆရာတော်ဘုရား...သာသနာတော်ကြီးကို လက်ရှိ အခြေအနေထက် တိုးပြီး နိုင်ငံမှာ အကျိုး ရှိအောင် မပြုပြင်နိုင်ရင်တော့ ဝါဒအမျိုးမျိုးတွေ ဝင်လာတော့မှာပဲ၊ ဒီလို ဝင်လာရင် သာသနာတော် ကြီးဟာ အထင်သေးခံရတော့မှာပဲ, သေချာတယ်၊ ဒါကြောင့် ဆရာတော်များက သာသနာတော်ကြီး တိုးတက်ရေးလမ်းကို ကြံစည်တော်မူပါဦးဘုရား" ဟူ၍ ဖြစ်သည်။

ထိုအခါ ဆရာတော်ကြီးများက "သာသနာတော် ကြီးအရေးကို ဒကာထိန်ဝင်းက ဒါလောက် စိတ် ဝင်စားနေရင် တောင်မြို့ဘုန်းကြီးနှင့် တွေ့ပေးဦး မှပဲ"ဟု အမိန့်ရှိတော်မူကြကာ ဒကာကလေးကို ခေါ်၍ ဆရာတော်နှစ်ပါး ကြွလာတော်မူခြင်းဖြစ် သတတ်။

**အနာဂတ်သာသနာရေး** ကြွလာကြပုံမှာ စစ်ကြီး ပြီးကာစ လမ်းပန်းများ ကလည်း မကောင်းသေး၊ ခရောင်းတောပမာ၊ ဒကာ ထိန်ဝင်း၏ ကားကလေး ခပ်ချာချာဖြင့် ရန်ကုန်မှ နေပြီး ၁၃၀၇-ခုနှစ် နတ်တော်လပြည့်ကျော် ၂-ရက် နေ့က စတင်ထွက်ခွာလာခဲ့ကြ၏၊ လမ်းတစ်လျှောက် မြို့တကာ ရွာတကာ၌ အဆင့်ဆင့် ရပ်နား၍ ဆင်းရဲ ငြိုငြင်စွာ ကြွလာတော်မူကြရပြီးလျှင် နတ်တော် လပြည့်ကျော် ၈-ရက် (၂၇-၁၂-၄၅)နေ့ ည ၁၂- နာရီမှ အမရပူရ တောင်မြို့သို့ ရောက်ကြသတတ်။

ဒကာထိန်ဝင်းလည်း ယခုမှပင် မြောင်းမြဆရာ တော်ကြီး၏ ငယ်တပည့် အရှင်ဇနကာဘိဝံသကို စတင်ဖူးတွေ့ရတော့၏၊ ကြွလာခြင်း၏အကြောင်း များကို ဆရာတော်ကြီးများက မိန့်မြွက်၍ ဒကာ ထိန်ဝင်းနှင့် အရှင်ဇနကာဘိဝံသကို မိတ်ဆက်ပေး တော်မူကြလေသည်။

ရောက်ပြီး နောက်တစ်နေ့မှစ၍ ဆရာတပည့် များ စုရုံးကြကာ မြို့ရွာအရေး တိုင်းပြည်အရေး သာသနာအရေးတို့ကို ဆွေးနွေးကြ တိုင်ပင်ကြ ဝေဖန်ကြသည် ဟူ၏၊ "သာသနာတော်ကြီးကို မပြု ပြင်၍ ဘယ်နည်းနှင့်မှ မဖြစ်၊ စေန် ပြုပြင်ရမည်၊ နိုင်ငံ့ခေါင်းဆောင်တို့က နိုင်ငံကို ပြန်လည်ထူထောင် ပြုပြင်ကြသလို သာသနာ့ဝန်ဆောင် ထိပ်ခေါင်တင် တို့ကလည်း သာသနာတော်ကို "ယခုလက်ရှိ ယိုယွင်း နေသည့်အတိုင်း မထားဘဲ" မူလကလို မြင့်မားနေ အောင် ပြန်လည် ပြုပြင်ကြရမည်၊ ပြန်လည်မွမ်းမံ ကြရမည်"ဟု တိုင်ပင် နှီးနှော၍ ရကြ၏။

ထို့ကြောင့် အနာဂတ်ကာလတွင် တိုင်းသူပြည် သားတို့ဘက်မှ ပြုပြင်သင့်သော အချက်များ, အထူး အားဖြင့် သာသနာ့ဝန်ထမ်းတို့ဘက်မှ ပြုပြင်သင့် သော အချက်များကို စုပေါင်းပြီးလျှင် **"အနာဂတ် သာသနာရေး"**ဟူသောစာအုပ်ကို ဆရာတော် အရှင် ဇနကာဘိဝံသက ရေးသားလေသည်၊ ပြုပြင်လို သော ပုဂ္ဂိုလ်များအတွက် အထူး နှစ်သက်ဖွယ်, စံပြုဖွယ်ကောင်းသော စာတစ်အုပ်ဖြစ်လေ၏။ ။

**ကြီးမားသော အကျိုးဆက်များ** ထိုစဉ်က ဒကာ ထိန်ဝင်းသည် လူငယ်ပိုင်းသာသာမျှပင် ရှိသေး ၏၊ တိုးတက်သော လူငယ်များ အသိုင်းအဝိုင်းတွင် ပါဝင်၏၊ ဒုတိယကမ္ဘာစစ်ကြီး မဖြစ်မီ ၁၉၃၈-ခုနှစ်လောက်ကပင် ရန်ကုန်မြို့တွင် နဂါးနီစာအုပ်များ ထုတ်ဝေကြ၍ တိုင်းပြည်၌ မျက်စိ နား ပွင့်အောင် ဆောင်ရွက်နေကြသော လူငယ်များ ပင် ဖြစ်ကြသည်၊ တိုင်းပြည်တိုးတက်ရေးအတွက် နိုင်ငံရေး စီးပွားရေး လူမှုရေး ဘာသာရေးစာအုပ် အမျိုးမျိုးကို ထုတ်ဝေ၍ မျက်စိ နား ဖွင့်ပေးနေကြ သော အသိုင်းအဝိုင်းမှ ဖြစ်၏။

သူတို့စာပေများကြောင့်ပင် အချို့လူငယ်များမှာ ဘာသာရေးဘက်၌ အမြင်မှောက်၍ တစ်ဖက်စွန်း သို့ ရောက်ကုန်ကြသူများလည်း ရှိကြ၏၊ လက်ရှိ ယိုယွင်းနေသော ဘာသာရေးပိုင်းကို တွေ့မြင်ကြ ပြီးလျှင် အထင်မှားသွားကြခြင်း ဖြစ်ပေလိမ့်မည်၊ မနှစ်မြို့စပ်ခြင်းသာ ဖြစ်ကြ၏၊ ဤသည်တို့ကို မြင်၍ ဒကာထိန်ဝင်းက ဆရာတော်ကြီးများအား အရေး တကြီး လျှောက်ထားခြင်း ဖြစ်သည်ဟုလည်း သိရ သည်။

ဒကာထိန်ဝင်း(သူတို့ အသိုင်းအဝိုင်းခေါ် သခင် ထိန်ဝင်း) မှုကား... ကံကောင်းပေစွ၊ ဝိနည်းကို

လေးစား၍ ကိုယ်ကျင့်သိက္ခာနှင့် မေတ္တာ ကရုဏာ ပြည့်ဝတော်မူကြသော ဆရာတော်ကြီးများကို တွေ့ ထားသူဖြစ်သဖြင့် အမြင် မှောက်မှားကာ တစ်ဖက် စွန်းသို့ ရောက်မသွားခဲ့ရပေ။

"ဤသူမျိုးကို တောင်မြို့ဘုန်းကြီးနှင့် တွေ့ပေး ထားမှ တော်မယ်"ဟူ၍ မြောင်းမြဆရာတော်ဘုရား ကြီးက အမြော်အမြင် ကြီးမားစွာဖြင့် ခေါ်လာတွေ့ ဆုံပေးသဖြင့် ဒကာ ထိန်ဝင်းအဖို့ **"သပ္ပုရိသူပ နိဿယ"** အမှီအခိုကောင်းကို ရလိုက်ခြင်း ဖြစ်၏၊ အရတော်လေစွ၊ တစ်ချိန်က သူ့လို ထက်မြက်သော (သူကဲ့သို့ အမှီအခိုကောင်းကို မရလိုက်သော)သူ့ သူငယ်ချင်းများမှာကား အဘယ်သို့ ရှိကြလေမည် နည်း?။

**အမှီအခိုရလျှင် အကုန်ပြီးစီးနိုင်**

*အရှင်အာနန္ဒာက "အမှီအခို ကောင်းကို ရလျှင် ကိစ္စတစ်ခုမှာ ထက်ဝက် ပြီးစီးပါသည်"ဟု လျှောက်ထားရာ မြတ်စွာဘုရားက "ဘယ်ဟုတ်မလဲ အာနန္ဒာ၊ အမှီအခိုကောင်းကိုရလျှင် တစ်ဝက်မျှမက ကိစ္စတစ်ခုလုံး ပြီးစီးနိုင်သည်"ဟု ဟောမိန့်တော်မူ ၏၊ ရှင်တော်ဗုဒ္ဓတို့၏ စကားတော်တို့သည် အမြဲ ထာဝရ မှန်ကန်လျက် ရှိပေစွတကား၊ အဘယ့် ကြောင့်ဆိုသော် ယခုအခါ အမှီအခိုကောင်းကို ရသူ များသည် လောကီ လောကုတ္တရာ နှစ်ဖြာလုံးမှာပင် မျက်မြင်ဒိဋ္ဌ ကိစ္စအဝဝ ပြီးစီးနေကြသည်ကို တွေ့ နေရသောကြောင့် ဖြစ်ပေသည်၊ ထို့ကြောင့် မည်သူ မဆို အမှီအခိုကောင်းကို ရဖို့ရန် လိုအပ်လှပေသည်၊ ရှင်တော်ဘုရားကလည်း "အမှန်တရားကို သိဖို့ရန် အမှီအခိုဆရာကောင်းကို ရှာအပ်၏"ဟု သတိပေး တော်မူထား၏။

ဒကာ ထိန်ဝင်းကား ဆရာသမား အမှီအခို ကောင်းများကို ရရှိလိုက်၍ ထိုက်တန်သော အမြော် အမြင်, တော်တည့်မှန်ကန်သော သဒ္ဓါတရားတို့ဖြင့် ဘုရားသာသနာတော်၌ ယုံကြည်မှုတွေ ရလာခဲ့၏၊ ဘဝအတွက် တန်ဖိုးမဖြတ်နိုင်သော ကျေနပ်ဖွယ်ရာ တို့သာ ဖြစ်ကြလေသည်၊ ထို့ကြောင့်ပင် ယခုအခါ မိမိဘဝကို သာသနာတော်၌ ပုံ၍ အပ်နိုင်ခြင်း, ဘာသာရေး သာသနာရေးတို့၌ နှစ်မြှုပ်ထားနိုင်ခြင်း, မိမိ ကိုယ်ရေးကိုယ်တာတို့ကို ဥပေက္ခာပြု၍ အများ ကောင်းကျိုးကို သယ်ပိုးဆောင်ရွက်နိုင်ခြင်းတို့ဖြင့် ပျော်ပိုက်နိုင်ခြင်း ဖြစ်လေသည်။ ။

## ပျို့ခင်းထောင်ခါစ ခါသမယ

**ခြနယ်တောင်ပို့ ဖို့သည့်ခြင်းရာ**

၁၀၃၇-ခုနှစ် ဆောင်းကာလ နှင့် နွေဦးကာလတို့တွင် ဟိုမှ ဒီမှ စာသင်သားတို့သည် ဆရာ တော် အရှင်ဇနကာဘိဝံသကို စုံစမ်း၍ မေးမြန်း၍ ရောက်လာကြသည်၊ စစ်မဖြစ်မီက စာပေပို့ချခြင်း, ကျမ်းစာရေးသားခြင်း, တရားဟောပြောခြင်းတို့ဖြင့် အရှိန်အဝါ ကြီးမားခဲ့သော အရှင်ဇနကာဘိဝံသ သည် စစ်အတွင်း၌ ဘေးကင်းရာတွင် ငြိမ်သက်နေ ရသောကြောင့် ပျောက်ကွယ်နေခဲ့၏၊ ယခု ဘယ်မှာ ရောက်နေသလဲ, ဘာတွေ လုပ်နေသလဲ, စာသင် တိုက် တည်ထောင်သလား, ... စာသင်သားကော လက်ခံပြီလား? စသည်ဖြင့် တပည့်ငယ်ရှိကြသော ဆရာဘုန်းတော်ကြီးများက မေးမြန်း စုံစမ်းကြ၏၊ ပြီးလျှင် တပည့်ငယ်များကို ပို့လွှတ်လိုကြောင်း ကမ်းလှမ်းကြသည်၊ ထိုအထဲတွင် စစ်ကိုင်းဘက် မိဂဒါဝုန်ချောင် ဆရာတော်ထံမှ ပို့လွှတ်လိုက်သော **အရှင်စက္ကပါလ**လည်း တစ်ပါး အပါအဝင် ဖြစ်၏၊ အရှင်စက္ကပါလသည် စစ်ကိုင်းတိုင်း မြင်းမူမြို့နယ် ထီးဆောင်းရွာဇာတိသား ဖြစ်၏၊ ခန္ဓာကိုယ်ပါးပါး နှင့် အရပ်တော်ကြီး မားမားမို့ ထူးခြားလှသည်ဟု ဆိုရပါမည်၊ အရပ်တော်ကြီးမှာ ၇-ပေနီးပါးခန့် ရှိမည်ထင်ရ၏၊ ခုတင်ပေါ် ကျိန်းလျှင် ထောင့်တန်း

* မဟာဝဂ္ဂသံယုတ်ပါဠိ၊ အဝိဇ္ဇာဝဂ်-၂။



**(ယခု) မဟာနာယက ဘဒ္ဒန္တဏ္ဏစန္ဒာဘာသာဘိဝံသ**
**အဂ္ဂမဟာဂန္ထဝါစကပဏ္ဍိတ, အဂ္ဂမဟာပဏ္ဍိတ**



**(ယခု) မဟာနာယကချုပ် ဘဒ္ဒန္တကုဏ္ဍလာဘိဝံသ**
**အဂ္ဂမဟာပဏ္ဍိတ, မဟာဓမ္မကထိကဗဟုဇနဟိတာဓရ**

ကျိန်းရသည်၊ အရပ်တော်ကြီးမှာ ကိုရင်ကြီးဘဝက ပင် ဤမျှလောက် ရှည်သည်ဟု ဆို၏၊ "ခုတင်ပေါ် တည့်တည့် မအိပ်ရတာ ကြာပါပြီကွာ"ဟု တစ်ခါက ညည်းပြဖူးသည်၊ သူ့ပုံပန်းမှာ ဖျင်ကြမ်းသင်္ကန်းကြီး ကို အမြဲတမ်း ဝတ်၏၊ အသွေးအရောင်က သစ် ခေါက်ဆိုးရော, မျက်မှောင်က ကြုပ်ထားတတ်သေး ၏၊ ဓာတ်မသိလျှင်တော့ ကြောက်စရာကြီး, ဓာတ်သိ ပြန်တော့လည်း မဆိုးလှပါ၊ အူစင်း၍ ဝမ်းတွင်း ဖြောင့် ပုဂ္ဂိုလ်ကြီးပင် ဖြစ်ပါသည်။

ထိုနှစ်ကုန်၍ ၁၃၀၈-ခုနှစ် ဝါတွင်းကာလတွင် စာသင်သား ၁၄-ပါး ၁၅-ပါးမျှ ရှိလာသည်၊ ဆရာ တော်သည် ခြပုန်းတောင်ပို့ ဖို့သည်ပမာ တရွေ့ရွေ့ အလုပ်စ၍ လုပ်နေပေပြီ၊ ရှိသမျှ တပည့်များအား အခြေခံမှ စ၍ မှုသစ် ချကာ မိမိ သဘောကျ သာသနာ့ပျိုးခင်း စတင်ထူထောင်နေလေပြီ။ ။

**ပန်းသတင်း လေညှင်းဆောင်**

ထိုနှစ် ဝါကျွတ်ကာလတွင် ဖြစ် ၏၊ ပန်းသတင်း လေညှင်း ဆောင်, လူ့သတင်း လူချင်း ဆောင်ကာ နောက်ထပ် နောက်ထပ် စာသင်သား တပည့်တွေ ရောက်လာကြပြန်သည်၊ နွေပိုင်းသို့ ရောက်သောအခါတွင်ကား ပို၍ များလာကြတော့ ၏၊ စပ်ရာ စပ်ရာ အဖော်ညှိ၍ ရွှေဘို, မုံရွာ, ညောင်ပင်ကြီးတော, သရက်ချိုတို့မှ **ကိုရင်သုဝဏ္ဏ**, **ကိုရင်ဏ္ဏန္ဒာဘာသ** *တို့လည်း ရောက်လာကြပြန် သည်၊ ရောက်လာကြသည့်အထဲတွင် ရဟန်းထက် သာမဏေက ပို၍ များလေသည်၊ ဆရာတော်က လည်း ငယ်ရွယ်သူကို ပို၍ ဦးစားပေးကာ ရွေးချယ် ခဲ့၏၊ ထိုနှစ် ကုန်၍ ၁၃၀၉-ခု နှစ်သစ်ပိုင်းသို့ ကူးလာသောအခါတွင်ကား နောက်တစ်ပါး နောက် တစ်ပါးနှင့် ပို၍ပင် များလာကြပြန်သည်၊ မန္တလေး

* **မှတ်ချက်။** ။တစ်ချိန်က **ကိုရင်ဏ္ဏစန္ဒာဘာသ**သည် ယခုအခါ **အရှင်ဏ္ဏစန္ဒာဘာသာဘိဝံသ**ဟူ၍လည်းကောင်း, တစ်ချိန်က **ကိုရင်ကုဏ္ဍလ**သည် ယခုအခါ **အရှင်ကုဏ္ဍလာလင်္ကာရာဘိဝံသ**ဟူ၍လည်းကောင်း ပြောင်းလဲလာကြကာ ဆရာတော်၏ အရိုက်အရာကို ဆက်ခံသော မဟာနာယကငါးပါးတွင် အပါအဝင်များ ဖြစ်လာကြသည်။

အထက် စဉ့်ကူး၊ ဆည်သည့်၊ ညောင်ပင်ပု စသော ရွာတို့မှ **ကိုရင် ကုဏ္ဍလ၊ ကိုရင် ကောဝိဒ၊ ကိုရင် စောတိပါလ၊ ကိုရင် ဏ္ဍနက**တို့ အုပ်စုသည်လည်း (**ဦးစန္ဒောဘာသ၊ ဦးဝရဗုဒ္ဓိ**တို့နှင့် ဆက်စပ်ပြီး) ဝါဆို ခါနီး ဝါဆိုလဆန်း ၅-ရက်နေ့တွင်မှ ရောက်လာကြပြန်၏။ ။

**အနာဂတ်ကျမ်းစာ လက်ရေးမူကြမ်း** ဆရာတော်သည် တစ်ဖက်မှ ပျိုးထောင်ကာစ သာသနာ့ပျိုးပင်ကလေးများ မညှိုးရအောင် ရေသွန်းဖျန်းလျက် အရိပ်တကြည့်ကြည့် နေရသလို အခြားတစ်ဖက်မှလည်း တိုင်းပြည်နှင့် သာသနာအတွက်ပြုပြင်ဖို့ရာ **အနာဂတ်သာသနာရေး** ကျမ်းစာကို ရေးသားနေခဲ့လေသည်၊ ၁၃၀၇-ခုနှစ်မှ စ၍ ရေးသားလာခဲ့ရာ ယခုအခါ အတော်ပင် ပြီးစီးနေပြီ ဖြစ်၏၊ ဆရာတော်က မူကြမ်းရေး၊ တပည့်ကြီး ဦးစန္ဒောဘာသက အချောလိုက်ကူး၊ ဤသို့ တစ်ဦးနှင့် တစ်ဦး ကိုယ့်တာဝန်နှင့်ကိုယ် တက်ညီလက်ညီဖြင့် ကြိုးစားလာခဲ့ကြရာ အပြီးသတ်လုနီးပါးပင် ဖြစ်၍ နေပေပြီ။

"**ဆရာတော်က မူကြမ်းရေး**" ဆိုသည့်အတိုင်း ထိုအချိန်က မူကြမ်းရေးရသောစက္ကူမှာ စာရေးစက္ကူ မဟုတ်ပါ၊ ကုန်ထုပ်သော စက္ကူကြမ်း ထူထူခေါက်ခေါက် ညိုညိုကြီးများသာ ဖြစ်၏၊ စစ်ပြီးကာလတွင် ရရာဖြင့် အသုံးပြုလျက် အလုပ် လုပ်ရသောအချိန် မဟုတ်ပါလော။

ဤနေရာတွင် စာရှုသူအား ကျမ်းပြုဆရာတော် အရှင်ဇနကာဘိဝံသ၏ သဘောထားကို အနည်းငယ် ပြောကြားလိုပါသေးသည်၊ ဤကဲ့သို့ ကုန်ထုပ်စက္ကူကြမ်းကြီးဖြင့် စာရေးသားရ၍ ဆရာတော်၏ နှလုံးသား၌ ထိခိုက်မည်ဟု ထင်ပါသလော၊ အနည်းငယ်မျှ ထိခိုက်မည် မဟုတ်ပါ။

အဘယ်ကြောင့်ဆိုသော် ဆရာတော်သည် သရိုင်သား ပီပီ နှမြောတတ်ခြင်းနှင့် တိုင်းပြည်အတွက် စွမ်းနိုင်သမျှ ချွေတာသော အလေ့ရှိခြင်းကြောင့် ဖြစ်ပေသည်၊ တစ်ခါတစ်ရံ၌ ဤကဲ့သို့ ကျမ်းစာကြီးများ ရေးသားရင်းက စာရွက်ကြမ်း ကုန်သွားသောအခါတွင် (ဟိုကဒီက ပေးသော) ပေးစာရွက်၏ နောက်ကျောဘက် အလွတ်ပေါ်တွင် ရေးလွှတ်လိုက်သည်ပင် ရှိတတ်ပါသေး၏၊ ဤသို့သော ဆရာတော် ပါပေ။ ။

**ကွယ်ပျောက်ပြီးမှ ပြန်၍ပေါ်လာ** တစ်နေ့တွင် တောင်သမန်အင်းကြီး၏ အရှေ့ဘက်ကမ်း တောင်သမန်ရွာမှာ နေသော လွှတ်တော်အမတ် **ဦးဘသီ** ရောက်လာ၏၊ ဦးဘသီသည် **ဦးစောလက်ထက်၌** ဘဏ္ဍာရေးနှင့် သစ်တောရေး ဝန်ကြီးဖြစ်ခဲ့သူပေတည်း၊ အမရပူရမြို့နယ်မှ တက်သော အမတ်ပင် ဖြစ်၏၊ ရောက်လာရသော ကိစ္စမှာ **ဦးနု**က စုံစမ်းခိုင်း၍ဟု ဆိုသည်၊ "သင်္ဂြိုဟ်ဘာသာဋီကာရေးသော ဆရာတော်တစ်ပါးဟာ ခင်ဗျားတို့ အထက်အညာဒေသကပဲ၊ ဘယ်မြို့မှာ နေတာလဲ၊ ဘယ်လို တွေ့နိုင်သလဲ၊ စုံစမ်းပေးပါ" ဆို၍ လာရခြင်းဖြစ်သည် ဟူ၏၊ ဤသို့ဖြင့် စကားစပ်မိရာမှ ဆရာတော်က "ယခု အနာဂတ်သာသနာကျမ်းစာရေးသားနေကြောင်း" ဦးဘသီအား ပြောလိုက်သည်။

ထိုနှစ် သီတင်းကျွတ်သောအခါ ဦးဘသီ၏ လမ်းညွှန်မှုဖြင့် ဝန်ကြီးချုပ်ဦးနုတို့ ရောက်လာကြ၏၊ အနာဂတ်သာသနာကျမ်းစာမှာ ထိုအချိန်၌ မရိုက်ရသေး၊ လက်ရေးမူမျှသာ ရှိသေးသည်၊ "ဦးနုက ကြည့်ချင်ပါသည်"ဆို၍ ဦးဘသီထံတွင် အပ်နှံလိုက်သည်၊ ထို့နောက် မေ့လျော့နေကြ၍လော မပြောတတ်၊ ထိုစာမူမှာ ပြန်လည် မရောက်လာတော့ချေ၊ မေးမြန်း စုံစမ်းသောအခါတွင်လည်း တစ်လက်မှ တစ်လက်ပြောင်း၍ လမ်းစပျောက်နေကြသည်၊ စာမူမှာ လက်နှိပ်စက်ဖြင့် ရိုက်ထားခြင်းမဟုတ်ဘဲ လက်ရေးဖြင့်သာ အချောကူးထားခြင်း ဖြစ်၍ အချောတစ်မူတည်းသာ ရှိခဲ့သည်၊ မည်သို့ လုပ်ကြမည်နည်း၊ မျက်လုံးပြူးကြရတော့၏။

ထိုအခါမှ တပည့်ကြီးဦးစန္ဒောဘာသက(အချော ရေးကူးပြီးတိုင်း သိမ်းထားခဲ့သော) ဆရာတော်၏ လက်ရေးမူကြမ်းတို့ကို ထုတ်ပေးသဖြင့် ပြဿနာ ပြေလည် အေးငြိမ်းသွားရတော့သည်၊ အချော ပြန်လည်ကူးဖို့ရန် ဖြစ်လာ၏၊ တော်ပေသေးသည်၊ ဦးစန္ဒောဘာသ၏ တရိုတသေ သိမ်းထားခဲ့သော ကောင်းမှုကြောင့် "အနာဂတ်သာသနာ" စာမူကြီး သည် (ဝိသုဒ္ဓိမဂ်ကျမ်းကြီးလို) တိမ်မြုပ် ပျောက်ကွယ် သွားရာမှ ပြန်လည် ထွန်းပေါ်လာခွင့် ရတော့ သည်။

## သစ်ပင်အောက်တွင် စာပေသင်၍

**အနာဂတ်သာသနာ ပြုပြင်ရေးများ**

ဆရာတော် အရှင်ဇနကာ ဘိဝံသသည် သက်တော် အားဖြင့် ၄၀-ကျော် ၅၀- အတွင်းဖြစ်၍ ပြုပြင်ရေး စိတ်ဓာတ်များ အလွန် ထက်သန်နေခဲ့၏၊ ဒုတိယ ကမ္ဘာစစ်ကြီးကြောင့် ပျက်စီးခဲ့ရသောတိုင်းပြည်ကို တိုင်းပြည်ခေါင်းဆောင် ပိုင်းတို့က ပြုပြင်ရေးတွေ စ,နေကြသလို စစ်ကြီး မုန်တိုင်း လှိုင်းဂယက်ကြောင့် ယိုယွင်းခဲ့ရသော သာသနာတော်အတွက် ပြုပြင်ရေးများကိုလည်း ဆရာတော်က စိတ်အားထက်သန်နေခဲ့သည်။

ထို့ကြောင့်လည်း လာမည့် အနာဂတ်တွင် သာသနာအတွက် ဖြစ်သင့်ဖြစ်ထိုက်သော အနေ အထားများ တိုင်းပြည်အတွက် ပြင်သင့် ပြင်ထိုက် သော အချက်အလက်များကို စုပေါင်း ဖော်ပြ လမ်းညွှန်ထားသော **"အနာဂတ်သာသနာရေး"** ကျမ်းစာကို ရေးသားခြင်း ဖြစ်ပေသည်။

"အနာဂတ်သာသနာရေး"စာအုပ်သည် ပြုပြင် ရေးများအတွက် ဆရာတော်၏ အပြောင်မြောက်ဆုံး သော ကျမ်းစာပင် ဖြစ်၏၊ ကျမ်းစာကို ဗုဒ္ဓရတနာ အခန်း, ဓမ္မရတနာအခန်း, သံဃာရတနာအခန်းတို့ ဖြင့် အခြေခံတန်ဆာဆင်ထားပြီးလျှင် မြန်မာနိုင်ငံ၌ အတိတ်သာသနာ, ပစ္စုပ္ပန်သာသနာ, အနာဂတ် သာသနာတို့ကိုပါ ကွက်ကွက်ကွင်းကွင်း ဖော်ပြထား ၏၊ ပြီးလျှင် တိုင်းပြည်ရှိ ဒါယကာ ဒါယိကာမများ ဘက်မှ ပြုပြင်သင့်သောအချက်များကို သဘာဝ ကျကျ ဝေဖန်ပြလျက် ပြုပြင်ရေးများကို လမ်းညွှန် ထားသည်။

**ဥပမာ**-လူတို့ဘက်တွင် ပကာသန ရှင်ပြုအလှူ တွေ, နားသတွေ, လက်ထပ်မင်္ဂလာပွဲတွေ, အသုဘ ကိစ္စတွေ, ဆွမ်းသွတ်ပွဲတွေ, ဘုရားပွဲ, ကျောင်းပွဲ, ဆွမ်းကြီးလောင်းလှူပွဲ စသည်တွေ၊ သာသနာ ဘက်တွင် ဘုရားတည်, ကျောင်းဆောက် ကိစ္စတွေ၊ ရဟန်းခံ, သိမ်သမုတ်ကိစ္စတွေ၊ စာပေသင်ကြားရေး ကိစ္စ၊ စာမေးပွဲများကိစ္စ၊ ဘုန်းကြီးပျံအရိုးအိုးစေတီ ကိစ္စများကို ဖြစ်သင့်သည့်အတိုင်းအဆထက် အပို အမိုတွေ လွန်ကဲနေကြသောကြောင့် တစ်တိုင်း ပြည်လုံး တစ်သာသနာလုံး ကိုယ်စီကိုယ်င ပြုပြင် ကြဖို့ရန် လမ်းညွှန်ထားသည်။

ထို့ပြင် ထူးထူးခြားခြား မည်သူမျှ မကြံအားသေး သော (မည်သူမျှ ကြံဖို့ရန် သတိမရသော) **"ဆဋ္ဌ သင်္ဂါယနာ"**တင်ရေးကိစ္စကိုပါ နိုင်ငံတော်အစိုးရအား အကြံဉာဏ်ပေးလျက် တစ်တိုင်းပြည်လုံးအား တပ် လှန့်ချက်လည်း ပါရှိသည်။ ။

**လက်တွေ့ပုံဖော် စမ်းသပ်ကွင်း**

ဆရာတော်သည် တစ်တိုင်း ပြည်လုံးအတွက် ပါးစပ်က ပြော၍ လက်ကရေး၍ ညွှန် ပြသလို ကိုယ်တော်တိုင်ကလည်း မိမိနေရာတွင် လက်တွေ့စမ်းသပ် အကောင်အထည်ဖော်နေ၏၊ လက်တွေ့ပြုပြင်ရေးတွေ လုပ်နေ၏၊ အိန္ဒိယနိုင်ငံမှ **စန္တိနိကေတန်**ကျောင်းဝင်းကြီးသည် စာရေးဆရာ ကဗျာဆရာ **ဒေါက်တာ ရာဘင်ဒြာနတ်တဂိုး**၏ စိတ်ကူးတို့ကို အကောင်အထည်ဖော်ရာ စမ်းသပ် ကွင်းကြီး ဖြစ်သလို ...မြန်မာနိုင်ငံ အမရပူရမြို့မှ

မဟာဂန္ဓာရုံကျောင်းတိုက်ကြီးသည်လည်း ဆရာတော် အရှင်ဇနကာဘိဝံသ၏ ပြုပြင်ရေး လက်တွေ့စမ်းသပ်ကွင်းကြီးပင် ဖြစ်တော့သည်။

ဤသို့အားဖြင့် ၁၃၀၉-ခုနှစ်တွင် သံဃာဦးရေ အစိတ် သုံးဆယ်ခန့် ဖြစ်လာသည်၊ တရွေ့ရွေ့ များလာ၏၊ သံဃာဦးရေ များလာသလောက် စားသောက်ရေးကိစ္စ, နေထိုင်ရေးကိစ္စတာဝန်တွေလည်း ပိုလာတော့၏၊ ပညာရေးကား မိမိကိုယ်တိုင် စွမ်းနိုင်သောကိစ္စဖြစ်၍ မထောင်းသာလှပေ။

ပြန်လည်ထူထောင်ကာစ ဖြစ်သော အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်သည် အစစ အရာရာ မပြည့်မစုံ ဖြစ်ခဲ့၏၊ နေရာထိုင်ခင်း အဆောက်အအုံ လုံလောက်စွာ မရှိ၊ ကုဋီအိမ်သာ မပြည့်စုံခဲ့၊ ရှိသမျှ သံဃာ အစိတ် သုံးဆယ်အတွက်မျှပင် မလှမပ, မင မမျှ၊ မူလက ရှိခဲ့သော ကျောင်းအဆောက်အအုံ နှစ်ခုမျှသည်လည်း စစ်အတွင်းက ယိုယွင်းခဲ့ကြသည် မဟုတ်ပါလော။

သို့ဖြစ်လျှင် လုံလောက်အောင် ထပ်မံ ဆောက်ပါတော့လား, သို့မဟုတ် အဟောင်းတွေကို ပြုပြင်ပါတော့လား ဆိုပြန်ကလည်း ပို၍ ပို၍ အရေးကြီးသော စားသောက်ရေးကိစ္စတို့၌ ရင်တထိတ်ထိတ်ဖြင့် ဖြည့်သိပ်နေခဲ့ရ၍ မတတ်နိုင်ချေ။ ။



**စာဝါများချခဲ့ရာ စက်ဖြာရွက်စိပ် မန်ကျည်းရိပ်**

**သစ်ပင်အောက်တွင် စာပေသင်**

ထို့ကြောင့် ရှိသမျှ သံဃာသည် ရှိသမျှ မိုးမလုံ့တလုံ အဆောက်အအုံ ကလည်း တို့၌ သင့်တော်သလို ကပ်ရပ်နေရာယူကြရသဖြင့် စာသင်ခန်းမ စာချခန်းမဟူ၍ မရှိနိုင်တော့ပေ၊ သို့အတွက် စာချချိန်ရောက်၍ တုံးခေါက်လျှင် ကျောင်းတိုက် အလယ်က အရိပ် ကောင်းသော မန်ကျည်းပင်ကြီး အောက်သို့ ဆရာတော် ရောက်လာသည်၊ တပည့်များလည်း စုရုံးဝိုင်းအုံ ရောက်လာကြတော့သည်၊ ဤတွင် ဆရာလည်း မတ်တတ်ရပ်, တပည့်များလည်း မတ်တတ်ရပ်လျက် နာရီဝက်ခန့် စာတစ်ဝါ ပြီးဆုံးကြရပါသည်၊ နောက်တစ်နေ့လည်း ဤနည်း, နောက်နေ့များတွင်လည်း ဤပုံပင်ဖြစ်၏။

ဒေါက်တာတကိုးသည်လည်း အရိပ်ကောင်းသော သစ်ပင်ကြီးများအောက်၌ မြေကြီးပေါ် တုတ်နှင့် ရေးခြစ်၍ တပည့်တို့အား ပညာသင်ပေးသည် ဆို၏၊

ဤနည်းအားဖြင့်လည်း တစ်ပိုင်းတစ်စ တူပြန် လေသည်။

နေထွက်ပြူစ နံနက်ခင်း၌ ချပို့ပေးသော… သာမဏေကလေးများအတွက် အခြေခံစာ၀ါကိုမူ ကား ကျောင်းတလင်း လွင်တီးခေါင်တွင် နှစ်ပင် ပူး၍ ပေါက်နေသော ထန်းပင်ကြီးကို သံပြားဘော ကြီး ထောင်၍ (ယခင်နည်းအတိုင်း) ဆရာရော တပည့်ပါ မတ်တတ်ရပ် စာ၀ါ နေ့စဉ် တက်ကြရ ပါသည်။

ဤသို့ဖြင့် ၁၃၁၀-ခုနှစ်သို့ ရောက်သောအခါ တောင်တွင်းကြီးမှ **ဦးဉာဏဝံသ, ကိုရင်ဃောသိတ** စသည်တို့ပါ ထပ်မံ တိုးလာကြသဖြင့် သံဃာအပါး ၅၀-ခန့်ပင် ဖြစ်၍ လာပြန်သည်၊ ၁၃၁၁-ခုနှစ်တွင် ကား ထို့ထက်ပင် များ၍ ၇၅-ပါးခန့် ရှိလာ၏၊ သို့သော် စာပေသင်ကြားရေး ခန်းမကား၊ ဘူမိ ကမ္ပလာ ဖဲမွေ့ရာသာတည်း။ ။

## တိုင်းပြည်နှင့်သာသနာအတွက် ဦးတည်ချက်

**ရေးသားသမျှ လက်ခံကြသဖြင့်**

ဆရာတော် အရှင်ဇနကာ ဘိ၀ံသသည် မိမိ၏ နေရာ ကျောင်းတိုက်တာ၌ မိမိ စိတ်ကြိုက် မိမိပျိုးထောင်ခဲ့သော သာသနာတော်၏ ပျိုးပင်များလည်း အတော်အတန် အရှိန်ရ၍ အောင် မြင်လာသည့်အတွက် တစ်ဖက်မှ ၀မ်းသာရ၏၊ အခြားတစ်ဖက်တွင်လည်း တိုင်းပြည်အတွက် ဗုဒ္ဓ ဘာသာ သင်ခန်းစာများ ရေးသားပေးခြင်း, ဆဋ္ဌ သင်္ဂါယနာအတွက် မိမိကျရာတာ၀န်တို့ကို ဆောင် ရွက်ခြင်းဖြင့် အလုပ်တွေ မအားအောင် ရှိနေခဲ့သည်၊ ထိုအထဲတွင် ရန်ကုန်မြို့ **ဝိုင်-အမ်-ဘီ-အေ** အသင်း ကြီး၏ လျှောက်ထားချက်အရ **"ရုပ်စုံ ဗုဒ္ဓသာသနာ ၀င်"** ကျမ်းစာကိုလည်း ရေးသားပေးခဲ့သေး၏၊ **ပန်းချီကျော် ဦးဘကြည်**၏ ရုပ်ပုံများဖြင့် တန်ဆာ ဆင်ထားရာ ကလေးသူငယ်များအဖို့ ထင်လွယ် မြင် လွယ် သိလွယ်သော ကျမ်းစာတစ်စောင်အဖြစ် ထင်ရှားလှသည်။ [ထို ရုပ်စုံဗုဒ္ဓသာသနာ၀င်ကို အုပ်ရေ တစ်သိန်း ရိုက်နှိပ်ခဲ့သည်။]

ထို့ပြင်လည်း ဒကာထိန်၀င်း၏ လျှောက်ထား ချက်အရ ဆဋ္ဌသင်္ဂါယနာတင် ပိဋကတ်တော်များကို မြန်မာပြန်ရာ၌ နမူနာရစေရန် **ဗြဟ္မဇာလသုတ်**နှင့် **သာမညဖလသုတ်တော်**တို့ကို မြန်မာဘာသာသို့ ပြန်ဆိုခဲ့၏၊ ယင်းကျမ်းစာများမှာ ၁၃၁၁-ခုနှစ်နှင့် ၁၃၁၃-ခုနှစ်များတွင် ထွက်ပေါ်လာခဲ့ကြသည်။

ထို့နောက် သာသနာတော်၏ အညွန့်အညောက် သဖွယ် သာမဏေငယ်များအတွက် အထူးလိုလား အပ်သော **"ရုပ်ပုံရှင်ကျင့်၀တ်"**ကိုလည်း ဓာတ်ပုံ ဘလောက်များဖြင့် သားသားနားနား ဖတ်ချင့်စဖွယ် ရေးသား ထုတ်ဝေခဲ့ပြန်သေးသည်၊ ၁၃၁၄-ခုနှစ်၌ ထွက်ပေါ်ခဲ့၏။

ဆရာတော်၏ စာအုပ်များကို ရေးသားသမျှ အများက လက်ခံကြ၏၊ အားပေးကြ၏၊ ထို့ကြောင့် စေတနာ အပြည့်အ၀ဖြင့် ဆက်လက် ကြိုးစားရပြန် တော့သည်။ ။

## သာသနာပျိုးထောင်မှုအသွင်သစ်

**အခြေပြုဆရာတော် ဓေါ်ရမည်လော**

ဆရာတော် အရှင်ဇနကာ ဘိ၀ံသသည်… သာသနာ တော်ကို ပြုပြင်ရာတွင် မူသစ်ကို မြင်ထားသော ဆရာတော်တစ်ပါး ဖြစ်၏၊ ထို့ကြောင့် ဒုတိယကမ္ဘာစစ်ကြီးအပြီးတွင် မြန်မာ နိုင်ငံတော်၌ ဌာနအသီးသီး ပြုပြင်ကြရာ၀ယ် သာသနာတော်အတွက် ဆရာတော်က သူ့စိတ်ကြိုက် ဤသို့ ပြုပြင်ရေး စတင်သည်၊ သူပိုင်သော အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်တွင် သူ့စိတ်ကြိုက် သူ့ သဘောကျ အားရပါးရရွေးချယ်၍ သာသနာ့ပျိုးခင်း



**သာသနာ့ပျိုးခင်းမှ ပျိုးပင်ငယ်များ**

ထောင်တော့သည်၊ အခြား အခြားသော ဆရာတော်တို့မှာ သာသနာတော်ကို မြှင့်တင်ရာတွင် ရဟန်း သာမဏေ ကြီးငယ်မဟူ မည်သူမဆို ပုဂ္ဂိုလ်မရွေး အားလုံးကို ရောထွေးလျက် ကျွေးမွေးစောင့်ရှောက် ချီးမြှောက်တော်မူကြ၏။

ဆရာတော် အရှင်ဇနကာဘိဝံသကား ထိုသို့ မဟုတ်ချေ၊ အသက်ကြီးသော သူတို့မှာ အရိုးရင့်ပြီး ဖြစ်၍ ပြုပြင်ရန်မလွယ်ကူ၊ အသက်ငယ်သောသူတို့သာ (ဝါးနုကို မီးကင်၍ ဖြောင့်လျှင် လွယ်ကူသလို) လွယ်ကူနိုင်သည်ဟု စွဲကိုင်ထားတော်မူ၏။

ထို့ကြောင့်ပင် ငယ်ရွယ်သော ရဟန်း သာမဏေတို့ကို ရွေးချယ်လက်ခံပြီးလျှင် ပြုပြင်တော်မူ၏၊ စာပေကိုလည်း ထိုငယ်ရွယ်သူတို့နှင့် လိုက်လျောအောင် မူလတန်းသဒ္ဒါ၊ အခြေပြုသဒ္ဒါ၊ အခြေပြုသင်္ဂြိုဟ် စသည်ဖြင့် အခြေခံကျမ်းစာတို့ကိုပါ စနစ်တကျ ရေးသားတော်မူ၏၊ ဤသည်ပင်လျှင် အများနှင့်မတူ တစ်မူခြားနား အသွင်သစ်များ ဖြစ်နေတော့၏။ ။

**ပြုပြင်ပုံများ အထွေထွေ**

ဆရာတော် အရှင်ဇနကာဘိဝံသ၏ ပြုပြင်ပုံမှာ ... ဦးစွာ ပထမ ကျောင်းတိုက်တွင်း၌ အသက်ကြီးသော ရဟန်းတော်တို့ကို လက်မခံပေ၊ ရဟန်းဆိုလျှင် ၃-ဝါ၊ ၃-ဝါအောက်ကိုသာလျှင် လက်ခံတော်မူ၏၊ သာမဏေဆိုလျှင် အများအားဖြင့် ခပ်ရွယ်ရွယ်၊ အသက်အားဖြင့် ၁၃-နှစ်၊ ၁၄-နှစ်၊ ၁၅-နှစ်စသော ရှင်သာမဏေများကိုသာ လက်ခံတော်မူလေ့ရှိ၏၊ ထို့အောက် ငယ်ရွယ်သောသူများကိုကား (သင်္ကန်းကို ရိုသေစွာ မထိန်းသိမ်းနိုင်သေး၍) ဖိုးသူတော် အသွင် ဝတ်ဖြူစင်ကြယ် ဝတ်ပေးထား၏၊ ထိုပုဂ္ဂိုလ် အားလုံးကိုလည်း ဥပဓိရုပ် ပြည့်စုံမှု ရှိ-မရှိ ကိုယ်တော်တိုင် ကြည့်တော်မူ၏၊ စိတ်ကောင်း စေတနာ ကောင်း သဒ္ဓါတရားကောင်းကိုလည်း လိုလားတော်မူ၏၊ စာသင်သား တစ်ပါးသည် ဥပဓိရုပ်ကောင်းခြင်း၊ အသက်ငယ်ရွယ်ခြင်း၊ သဒ္ဓါတရားကောင်းခြင်း စသော ဂုဏ်အင်္ဂါများ ရှိသော်လည်း ကျောင်းတိုက်တွင်းမှ အာမခံ ကြီးကဲသူ ရှိရပါသေးသည်၊ အာမခံမည့်သူ မရှိလျှင် နေခွင့် မရသေးပါ၊ ကိစ္စအဝဝအတွက် အာမခံမည့်သူ ရှိမှ နေခွင့်ရပါသည်၊ အားလုံး ပြည့်စုံ၍ နေခွင့်ရသောအခါ ဆိုင်ရာ အုပ်ချုပ်မည့်သူနှင့် ကပ်၍ ထားပေး၏။ ။

**အပြင်ပုံပန်း ပြုပြင်မှုများ**

အသစ် ရဟန်း သာမဏေများ နေခွင့်ရ၍ ကျောင်းတိုက်သို့ လာတော့မည်ဆိုလျှင် သင်္ကန်း အညိုရောင်များ ပါခဲ့ရသည်၊ ရောက်လျှင် ရောက်ချင်း စာသင်ခွင့် မပေးသေးပါ၊ အညိုရောင်သင်္ကန်းများ မလုံလောက်လျှင် ထပ်မံ ဆိုးရသေး၏၊ (အစဦးပိုင်းက သင်္ကန်းဆိုးရည် ကျိုရန်အတွက် ညောင်ခေါက် ပြုတ်ရန်၊ ပိန္နဲသား အနှစ်ကို ကျိုရန် မြေအိုးနားတို (ဖျင်းတုတ်)ကြီးများ၊ သံဒယ်အိုးကြီးများကို ဆရာ တော်က စီမံပေးထား၏။

သက်န်းများ ဆိုးပြီးသောအခါ သင်းပိုင်ဝတ်ပုံ၊ ကေသီရန်းပုံ၊ သင်္ကန်းရုံပုံတို့ကို အသားကျနေအောင် ချပ်ချပ်ရပ်ရပ် ရှိအောင် လေးငါးရက်ခန့် တစ်ပတ်ခန့် လေ့ကျင့်နေရပါသည်၊ အဆစ်ပိုင်းကျကျ ချပ်ချပ်ရပ်ရပ် ဝတ်တတ်၊ ရုံတတ်၊ ရန်းတတ်သောရဟန်း သာမဏေ အဟောင်းများထံ ချဉ်းကပ်၍ သင်ယူရ၏၊ အကယ်၍ သင်္ကန်းက ကြီးနေလျှင်သို့မဟုတ် ရှည်နေလျှင် ဖြတ်ပစ်ရပါသည်၊ တိုနေလျှင် ဆက်ပေးရပါသည်၊ ယင်းကိစ္စများအတွက် ဆရာတော်က အပ်ချုပ်စက် တစ်လုံးကို စီမံပေးထားပါသည်၊ ဆရာတော်ကား စိတ်တိုင်းကျ အားရပါးရ ပြုပြင်နေခြင်း ဖြစ်ပါသည်။ ။

**တစ်ပတ်တစ်ခါ ခေါင်းရိတ်ပါ**

ဝိနည်းတော်အရ ဆံပင်များကို လက်နှစ်သစ်ရှည်အောင်သော်လည်းကောင်း၊ လက်နှစ်သစ်ခန့် မရှည်နိုင်လျှင်နှစ်လကြာအောင်သော်လည်းကောင်း ထားနိုင်ခွင့်ရှိ၏၊ သို့သော် ဆရာတော်ကား ထိုမျှ ရှည်အောင်၊ ထိုမျှ ကြာအောင် မထားရ၊ တစ်ပတ် တစ်ခါ ရိတ်ရမည်ဟု အမိန့်ထုတ်ထားသည်၊ အများအားဖြင့် အဖိတ်နေ့နှင့် ဥပုသ်နေ့တွင် ရိတ်ဖြစ်အောင် ရိတ်ကြရသည်။

မဟာဂန္ဓာရုံစည်းကမ်းအရ... အဖိတ်နေ့တွင် နံနက်ပိုင်း၌သာ စာဝါများ ရှိ၍ နေ့လယ်ပိုင်းမှ စ၍ မရှိ နေ့တစ်ဝက် ပိတ်သည်၊ ထိုပိတ်သောအချိန်တွင် တစ်ကျောင်းတိုက်လုံး ကိုယ်စီ ကိုယ်စီ ကိုယ့်ကျောင်းကို ရှင်းလင်း သုတ်သင်ကြရသည်၊ နေ့စဉ် သာမန်ရှင်းလင်းမှုအပြင် အဖိတ်နေ့တွင် အထူးသန့်ရှင်းကြရသည်၊ မဟာဝါခန္ဓကဌ် လာသည့်အတိုင်း အိပ်ရာနေရာတို့ကို နေလှန်းခြင်း၊ ကျောင်း၌ မြူမှုန် ဖုန်တို့ကို သုတ်သင်ခြင်း ပြုကြရသည်။

ထိုသို့ သုတ်သင်ရှင်း လင်းပြီးသောအခါ မိမိတို့ခေါင်းမှ ဆံပင်များကိုပါ ရိတ်ကြရသည်၊ ထိုနေ့တွင် အလုပ်များလွန်း၍ အချိန်မရလျှင်သော်လည်းကောင်း၊ နေမကောင်း၍သော်လည်းကောင်း ကြုံခဲ့လျှင် နောက်တစ်နေ့ ဥပုသ်နေ့ (တစ်နေ့လုံး) အားရက်မှာ ရိတ်ဖြစ်အောင် ရိတ်ကြရသည်၊



သင်းပိုင်ကို ထက်အောက် အညီဝတ်



ကေသီကို အဝန်းညီစွာ ရုံပါ

မရိတ်လျှင် ဒဏ်ပေးသည်၊ ကြားရက်များ၌ ရိတ်လျှင်လည်း ဒဏ်ပေးသည်။

ထို့ကြောင့် ဂန္ဓာရုံ၌ ဥပုသ်နေ့ ညနေပိုင်းဆိုလျှင် တစ်ကျောင်းတိုက်လုံး ဦးခေါင်းပြောင်ကလေးချည်း ဖြစ်နေသည်ကို ဖူးတွေ့နိုင်၏။

တစ်ခါသော် ဒါယကာတစ်ဦးက ဂန္ဓာရုံသံဃာများအား ဆွမ်းကပ်လိုသည်ဟု တိုင်ပင်လာသော အခါ မိတ်ဆွေ ဒါယကာက ဥပုသ်နေ့ တစ်ခု၏ နောက်တစ်နေ့ကို သတ်မှတ်၍ ဆွမ်းကပ်ကြလေသည်၊ ဆွမ်းဒါယကာမှာ အခြားအရာတွေထက် သံဃာတော်များ၏ ဦးရေစိမ်းစိမ်းကလေးတွေနှင့် ဦးခေါင်းပြောင်ကလေးများကို ဦးတချချနှင့် ဖူးမဝအောင် အံ့သြရသော ဟူ၏။

စင်စစ်သော်ကား မိတ်ဆွေ ဒါယကာက ဤသို့သော ဒဿနာနုတ္တရိယကို ဖူးမြင်စေလိုသောကြောင့် ဥပုသ်နေ့၏ နောက်တစ်နေ့ကို သတ်မှတ်လိုက်ခြင်း ဖြစ်သတည်း။ ။

**စာသင်မှုက နောက်ကိစ္စ** ထိုကဲ့သို့ အပြင်ပုံပန်းကို အချိုးကျအောင် လေ့ကျင့်ခန်းယူပြီးသော အခါ စာသင်ခွင့် မပေးသေးပါ၊ ကျောင်းဝေယျာဝစ္စ သေနာသနဝတ္တရားနှင့်ဆောင်ရွက်ရေးကိစ္စ, နေရာထိုင်ခင်း သန့်ရှင်းရေးကိစ္စများ ဆောင်ရွက်တတ်အောင် သင်ယူရပြန်သေးသည်၊ လက်ရှိ အဟောင်းပုဂ္ဂိုလ်များနှင့် တွဲ၍ လေ့ကျင့်ခန်း ယူကြရပါသည်၊ ဤသို့လျှင် ကျောင်းတိုက်တွင် နေသားတကျ ရှိလာသောအခါတွင်မှ မိမိနှင့် လိုက်လျောသော အခြေအနေကို ဆရာတော်ကိုယ်တိုင် စစ်မေးပြီးလျှင် သင့်တော်သော ပညာရေးအဆင့်အတန်း၌ နေရာချထားပေးပါသည်။

ဤသို့လျှင် ပညာရေးကို ဦးစားမပေးဘဲ နောက်တန်းတွင် ထားက သာသနာတော်၏ ကြည်ညိုဖွယ်အသွင်ကိုသာ ရအောင် ပြုပြင်နေခြင်း ဖြစ်ပေသည်၊ ထို့ကြောင့်လည်း ဆရာတော်၏ စီမံကိန်းတွင် ... "**စာတတ်ဖို့က ဒသမ**"ဟု မှုချထားခြင်း ဖြစ်သည်။

**စိတ်ကောင်းရှိဖို့က ပထမ** ဆရာတော်သည် အထက်အောက် ပိဋကတ်ပါဠိတော်, အဋ္ဌကထာ, ဋီကာများကို ထုံးလို ချေ ရေလို နှောက်၍ ထိုးဖောက် သိမြင်နိုင်စွမ်း ရှိသည့်အပြင် လောကတစ်ခွင်တွင်လည်း ပုထုဇဉ်အစားစား လူသားအထွေထွေနှင့် နေလာခဲ့သူ ဖြစ်၍ အခြေအနေ သဘာဝကို ကျကျနန ပိုင်နိုင်နေသော ပုဂ္ဂိုလ်ဖြစ်၏၊ ထို့ကြောင့် သာသနာတော်ကြီး၌ ဘုရားအကြိုက် ဖြစ်ဖို့ရာမှာ ဉာဏ်ကောင်းရုံဖြင့် မပြီးသေးပါ၊ ရုပ်ရည်ဥပမိ ပြည့်စုံရုံဖြင့်လည်း မလုံလောက်သေးပါ၊ စာတတ်နေရုံဖြင့်လည်း မပြည့်စုံသေးပါ၊ စင်စစ်မှာမူ ဝိနည်းလေးစားဖို့, သဒ္ဓါတရားကောင်းဖို့, စိတ်ကောင်းရှိဖို့သာ ပဓာနအဓိကအချက်ကျသည်ဟု မှတ်ချက်ယူ၍ ရပါ၏၊ ထို့ကြောင့် ဆရာတော့်မူတွင် "**စိတ်ကောင်းရှိဖို့က ပထမ**"ဟု တိတိကျကျ ပီပီပြင်ပြင် ချမှတ်ပါတော့သည်။ မှန်ပါသည်၊ စိတ်ကောင်း မရှိလျှင် ဘယ်လောက်ပင် ပညာတတ်သော်လည်း, ဘယ်လောက်ပင် ရုပ်ရည် ဥပမိပြည့်၍ အမျိုးမြတ်သော်လည်း သာသနာတော်နှင့်မအပ်ပါ၊ အများအတွက် အမြတ်မထွက်ပါ၊ *အင်္ဂုတ္တိုရ်ပါဠိတော်၌မူ ထိုပုဂ္ဂိုလ်မျိုးကို "**လူမြီး**"ဟုပင် ဘုရားရှင်က မိန့်တော်မူထားပါသည်၊

မြစ်ချောင်းထဲရှိ ငါးများသည် ထောင်ထားသော မြှုံးထဲသို့ ဝင်မိ၍ ပျက်စီးရသလို ပညာတတ်သော်လည်း မဖြောင့်သော, စိတ်ကောင်းမရှိသောပုဂ္ဂိုလ်အထံသို့ ချဉ်းကပ်၍ ပျက်စီးကြရကုန်၏၊ ထိုပုဂ္ဂိုလ်သည် မြှုံးနှင့်တူ၏၊ ထို့ကြောင့် "လူမြှုံး"ဟု မိန့်တော်မူခြင်း ဖြစ်သည်၊ သို့ဖြစ်၍ သာသနာတော်မှာ ဉာဏ်အလွန်မကောင်းသော်လည်း စိတ်ကောင်း ရှိဖို့သာ အရေးကြီး၏၊ စိတ်ကောင်းရှိပါက ဉာဏ်အတော်အသင့်ရှိလျှင် လုံလောက်ပြီ၊ ဤသို့လျှင် အပြင်ပိုင်း ရုပ်ဝတ္ထုကို ပြုပြင်ပြီးနောက် အတွင်းပိုင်း နာမ်ဝတ္ထု၏ ရှိသင့်သော အနေအထားရအောင်လည်း မှုချထားလေသည်။ ။

---

* အင်္ဂုတ္တရ၊ ဧကနိပါတ-၃၅။

# ပညာသင်ကြားရေးစနစ်

**အခြေပါဒ၊ သင်ဦးစ၌၊**
**ရှုနည်းမကျယ်၊ ဓိပ္ပာယ်ကောင်းစွာ၊**
**လိုရုံသာဖြင့်၊ အပ်ရာမသည်း၊**
**နားထွင်းနည်းသို့၊ ညံ့ဖြည်းမွေ့မွေ့၊**
**တရွေ့ရွေ့လျှင်၊ တစ်နေ့တစ်ထူး၊**
**ကျေးဇူးချဲ့ထွင်၊ ကျမ်းရိုးငင်လျက်...**

**အရှင်မဟာရဋ္ဌသာရ**

**ရိုးလျက်နှင့် ဆန်း၍နေခြင်း**

ဆရာတော်အရှင်ဇနကာဘိဝံသ၏ ပညာသင်ကြားရေး စနစ်မှာ အသစ်အဆန်းမဟုတ်ချေ၊ အင်းဝခေတ်က အဆိုအမိန့်ပြုခဲ့သော အရှင်မဟာရဋ္ဌသာရ၏ နည်းစနစ်ပင် ဖြစ်တော့သည်၊ သင်ကာစ-ကြားကာစ တပည့်ငယ်တစ်ဦးအတွက် စိတ်ပျက်စရာ၊ လန့်စရာ ခက်တာတွေကို သင်မပေး၊ အနက်အဓိပ္ပာယ် ကျဉ်းကျဉ်းနှင့် လိုရင်းမျှသာ သင်ပေး၏၊

အဋ္ဌကထာက ဘယ်နည်း၊ ဆရာ့ဆရာကြီးတို့က ဘယ်ဟာ၊ ဋီကာအဆိုက ဘယ်သို့၊ ဂဏ္ဌိတို့က ဘယ်ပုံဟု စုံနေအောင် စစချင်း ပြောသည့်စနစ်ကို ပစ်ပစ်ခါခါကြီး ပယ်ထားတော်မူသည်၊ ဤသည်လျှင် ရိုးလျက် ဆန်းနေသောစနစ် ဖြစ်သွားတော့၏။

နားထွင်းသည့်ဥပမာလိုအစတွင် ရွှေအပ်ကလေး သေးသေးဖြင့် တဖြည်းဖြည်း ထိုးဖောက်ပြီးမှ နောက်ကာလ၌ စိန်နားကပ်ကြီး ပန်သာအောင် တရွေ့ရွေ့ ချဲ့သွားသည့်ပမာ ယခု ကျမ်းစာများကို သင်ကြားရာတွင်လည်း အဦးအစ ပထမ၌ လွယ်နိုင်သမျှ လွယ်အောင် ပြုပြင် သင်ကြားပေးသွားတော်မူသည်။

နောက်ကာလတွင်ကား တရွေ့ရွေ့ တဖြည်းဖြည်း (တောင်တက်သလို) မြင့်မှန်းမသိ မြင့်မြင့်လာစေကာ လေးနက်သော အဓိပ္ပာယ်များပါ စုံလင်အောင် သင်ကြားလာပါတော့သည်၊ ထိုအဆင့်သို့ မရောက်သေးက အားရဖွယ် မရှိသလို ဖြစ်၏။

ထို့ကြောင့် အချို့သော စာသင်သားတို့က ပြောတတ်ကြ၏၊ "တောင်မြို့ ဂန္ဓာရုံတိုက်ဟာ အခြေခံမျှလောက်သာ သင်ပေးတာပါ"ဟူသတည်း၊ အမှန်မှာ ထိုပုဂ္ဂိုလ်သည် အခြေခံပိုင်းတွင်မျှသာ ကျင်လည်သွားရရှာသူ ဖြစ်ပေလိမ့်မည်။

စင်စစ်သော်ကား ထိုသို့ မဟုတ်ပါချေ၊ "တစ်နေ့တစ်ထူး၊ ကျေးဇူးချဲ့ထွင်၊ ကျမ်းရိုးငင်လျက်"အပိုင်းသို့ ရောက်အောင် သင်ယူသွားရသူ မဟုတ်ရှာ၍ ပြောခြင်းမျှသာ ဖြစ်ပါလိမ့်မည်။ ။

# စားသောက်ရေးကဏ္ဍ

**မိသားစုစနစ် ဝေမျှစားသုံး**

ဆရာတော် အရှင်ဇနကာဘိဝံသသည် အနေအထိုင်ပုံပန်းသဏ္ဍာန်မျှကိုသာ ပြုပြင်သည်မဟုတ်သေး၊ စားရေးသောက်ရေးကဏ္ဍကိုလည်း ဆန္ဒနှင့် အညီ ပြုပြင်တော်မူ၏၊ ရှိသမျှ သံဃာအားလုံး တစ်နေရာတည်း၌သာ စုပေါင်းစားသောက်ကြရ၏၊ ကိုယ့်ကျောင်း ကိုယ့်နေရာ၌ ကိုယ့်သဘောအရ စားသောက်ခွင့် မပြုပါ၊ ထို့ကြောင့် ဆွမ်းစားကျောင်းကြီးတစ်ခု၌ ရဟန်း၊ သာမဏေ၊ ဖိုးသူတော်ပါမကျန် အားလုံး စုကြရ၏၊ ရရှိသမျှ လာဘ်လာဘကို အတူ



မိသားစုစနစ်ဖြင့်

ခွဲဝေ သုံးစားကြရ၏၊ သို့အတွက် မိသားစုစနစ် ဖြစ်တော့သည်။

စီစဉ်ပုံမှာလည်း ဆွမ်းစားခုံတစ်ခုမှာ တစ်ဖက်လျှင် နှစ်ပါးထိုင်သာအောင် ရှည်လျားလျား စီမံထား၏၊ ထို့ကြောင့် တစ်ခုံမှာ လေးပါးသာ ဆံ့၏၊ ခုံ၏ထိပ်ဘက်က မထိုင်ရ၊ ပဌမခုံနှင့် ဒုတိယခုံကို ထိပ်ချင်း တေ့ထားပေး၏၊ ထို့အတူ ဒုတိယခုံနှင့် တတိယခုံကိုလည်း ထိပ်ချင်း တေ့ထားပေး၏၊ ဤနည်းအားဖြင့် တတိယနှင့် စတုတ္ထ, စတုတ္ထနှင့် ပဉ္စမ ထိပ်ချင်း တေ့၍ တန်းလျားရှည်ကြီး ခင်းထားသည်၊ သံဃာတော်များကို ဖူးတွေ့လိုပါလျှင် မျက်နှာချင်းဆိုင်နေသော သံဃာတော်အတန်းကြီးကို ဖူးတွေ့ရပါမည်။ ။



ရရှိသမျှ လာဘ်လာဘကို



အတူ ခွဲဝေသုံးစွဲလျက်

**တင်ပျဉ်ခွေထိုင် ဘုဉ်းပေးပါ** ဆွမ်းစားသောအခါ ... ရဟန်းသာမဏေအားလုံးပင် တင်ပျဉ်ခွေထိုင်ကြရ၏၊ ဆွမ်းပွဲများတွင် ဆောင့်ကြောင့်ကြီးတွေ မထိုင်ရ, ဒူးတစ်ဖက်ထောင် တစ်ဖက်လှဲမျိုးလည်း မထိုင်ရ၊ ဟင်းစက် စသည် မပေအောင် မိမိတို့၏တင်ပျဉ်ခွေပေါ်တွင် လက်သုပ်ပုဝါကလေးများ ဖြန့်တင်၍ ဘုဉ်းပေးကြရ၏။

တစ်စုတစ်ရုံးတည်း တစ်နေရာတည်းမှာ ဘုဉ်းပေးကြသည့်အတွက် လှူဒါန်းလိုသူတို့မှာလည်း လွယ်ကူသွားကြ၏၊ သံဃာအများစုဖြစ်၍ ကြည်ညိုဖွယ်လည်း ဖြစ်၏၊ စုပေါင်းနေသော အထုအထည်ကြီး ဖြစ်၍ အင်အား အရှိန်အဝါလည်း ပြည့်နေပေတော့သည်။

စုပေါင်း စားသောက်မှုကြောင့် ရရှိသောအကျိုးတို့မှာ များပြားလှ၏၊ နေ့စဉ်တစ်ပါးနှင့်တစ်ပါး တွေ့မြင်နေရသဖြင့် ရင်းနှီးမှုတိုး၏၊ စည်းလုံးမှုစိတ်ဓာတ်ဖြစ်၏၊ သွေးမကွဲပြား, သူ့ကိစ္စ ကိုယ်ကိစ္စ မခြား, တစ်သားတည်း ဖြစ်၏၊ ဝေခြမ်းရသည်မှာ လွယ်ကူ၏၊ သံဃိကစနစ်အရလည်း သဘာဝကျ၏၊ နေ့စဉ်တွေ့မြင်၍ စည်းဝေးနေသလိုလည်း ဖြစ်၏၊ အချို့ကိစ္စများမှာ ဤသို့ သံဃာစုချိန်တွင် ပြောပြလိုက်ခြင်းဖြင့် အားလုံးကိစ္စ ပြီးသွားသည်။ ။

**စည်းလုံးမှုစိတ်ဓာတ်ရနိုင်** ဘုရား လက်ထက်တော်တုန်းက သံဃာအများစု၏ ဆန္ဒကို ခံယူ၍ အလုပ်လုပ်ရမည့်ကိစ္စများ ကြုံသောအခါ သံဃာစုံတတ်သည့် လပြည့်လကွယ် ဥပုသ်နေ့များတွင်မှ ဆောက်ရွက်ကြရ၏၊ ထို့ကြောင့် ဥပုသ်ပြု မလိုက်နိုင်သည့်အခါ ပါရိသုဒ္ဓိပေးရုံတင်မက (ဆောင်ရွက်စရာ ကိစ္စ ရှိလျှင် သဘောတူပါကြောင်း) ဆန္ဒကိုပါ ပေးလိုက်ရသော ထုံးစံ ရှိလာရလေသည်။

ဤကျောင်းတိုက်၌ကား ဆွမ်းစားချိန်တွင် ဤသို့ နေ့စဉ် ဆုံတွေ့နေရသဖြင့် သံဃာစုံသော ဆန္ဒကို လွယ်လွယ်နှင့် ဆောင်ရွက်၍ ရနိုင်၏၊ ထို့ပြင် အမြဲတမ်းလိုပင် စည်းလုံးမှုစိတ်ဓာတ်လည်း ရနေနိုင်တော့၏၊ တစ်နေရာတည်း၌ စုပေါင်းစားသောက်ကြရသည်ဟူရာ၌ စုပေါင်းပုံချင်း မတူတတ်ပေ။

အချို့ ကျောင်းတိုက်များ၌ ဆွမ်းခံရလာသမျှကို ကျောင်းသို့ ရောက်လျှင် ဆွမ်းစားကျောင်း ဘုန်းကြီးထံ အကုန် အပ်နှံကြရသည်၊ ထိုအခါ ပုထုဇဉ်သားများပီပီ ပုထုဇဉ်လို ကျင့်သုံးလာတတ်ကြသည်၊ အပါး ခိုလာတတ်ကြသည်။

ဤ မဟာဂန္ဓာရုံကျောင်းတိုက်၌ကား ထိုသို့ မဟုတ်ပေ၊ မိမိ ခြေသလုံးအားဖြင့် ရင်းနှီး၍ ရလာသော ပစ္စည်းများကို မိမိဘာသာ သုံးစွဲခွင့် ပေးထားသည်၊ ထိုသို့ ခွင့်ပေးလိုက်သဖြင့် ပုထုဇဉ်၏ ဆန္ဒကို ပြည့်ဝ ကျေနပ်သွားစေသည်။ ။

**စုပေါင်းစားခြင်း အကျိုးကျေးဇူးများ** သံဃာတော်များ တစ်နေရာတည်း၌ စုပေါင်းစားသောက်ခြင်း၏ အကျိုးမှာ များပြားလှပါ၏၊ ရေတွက်၍ပင် ကုန်နိုင်စရာ မရှိပါ၊ ဤအကျိုးကျေးဇူးများကို သတိမထားမိကြ၍သာ ကျောင်းတိုက်တာများ၌ တစ်ပါးစီ တစ်စုစီ တစ်အုပ်စုစီ ဘုဉ်းပေးနေကြခြင်း ဖြစ်သည်။

ဤအကျိုးများကို "တစ်ဘဝသံသရာ"စာအုပ်၌ **ဦးမေ့ဂုတ်က မေး၍ ဆရာတော်က ဖြေ**ထားသည်ကို မူရင်းအတိုင်း ကူးယူ ဖော်ပြပါအံ့...

၁။ စာချဘုန်းကြီး အချင်းချင်း, ကျောင်းအချင်းချင်း အပြိုင်အဆိုင် မရှိဘဲ ရသမျှ အတူစားရတော့ (တစ်အိုးတည်းစား အိမ်သူအိမ်သားလို)စိတ်ဝမ်းမကွဲပြားဘဲ အလွန်သွေးစည်းညီညွတ်ပါတယ်။

၂။ တိုက်တာမှာ လုပ်စရာ ကိုင်စရာ ရှိလျှင် သူ့ကျောင်း ကိုယ့်ကျောင်း မရွေးဘဲ အားလုံး ဝိုင်း၍ လုပ်ကြပါတယ်၊ ဒါကြောင့် ကျောင်းရှေ့ မျက်နှာစာတိုင်းမှာ ဆိုင်ရာကျောင်းက သန့်ရှင်းစေတဲ့ အပြင် အကြီးအကျယ် ပြုပြင်စရာရှိရင် ကျောင်းတိုက်က ဝိုင်း၍ ပြုပြင်ကြပါတယ်။

၃။ မိမိတို့ဆိုင်ရာ ဆရာ မိဘ ဆွေမျိုးဉာတိ ဒကာဒကာမတို့က ဆန် ဆီ ပဲ ထန်းလျက် စသည် လှူလိုက်လည်း အားလုံး သံဃိကအဖြစ်ဖြင့် လှူ၍ ပုဂ္ဂလိက မထားကြ၊ အားလုံးအတွက် တစ်နေရာတည်းမှာ ချက်ပြုတ်ရသောကြောင့် ကျောင်းတိုင်းမှာ သန့်ရှင်းမှုလည်း ပင်ကိုအတိုင်း ရှိနေပါတယ်။

၄။ စာအံတဲ့အခါ မည်သည့် ကျောင်းတိုက်၌မျှ အသံ ကျယ်စွာ မအံရဘဲ တိုးတိုး အံရသောကြောင့် တိတ်ဆိတ် ငြိမ်သက်မှုလည်း ကျောင်းတိုင်းမှာ အတော်ကလေး ရနေပါတယ်။

၅။ အားလုံး ကျန်းမာရေးအတွက် ဂိလာနကျောင်း သီးခြားထားသောကြောင့် မကျန်းမာသော ကိုယ်တော်ရှိလျှင် မိမိကျောင်းမှာ မနေရဘဲ ဂိလာနကျောင်းမှာ လာ၍ နေရသောကြောင့်လည်း ကျောင်းတိုင်းမှာ တစ်မျိုး သန့်ရှင်းနေပါတယ်။

၆။ အရေးကြီးသော ဂိလာနကို ဆေးရုံမှ စသည်ဖြင့် ကူညီစရာရှိရင်လည်း သူ့ကျောင်း ကိုယ့်ကျောင်းက ပုဂ္ဂိုလ်လို့ မရွေးဘဲ တာဝန်ဆောင်နိုင်သော ပုဂ္ဂိုလ်များက ကူညီကြရပါတယ်။

၇။ စစ်ပြီးတဲ့အခါတုန်းက ဆောင်းအခါမှာ ကိုရင်တစ်ပါး ဖျားပါတယ်၊ ပထမတော့ မြို့ကဆရာနဲ့ ကုပါတယ်၊ ဆရာက ညအခါမှာ ကြပ်လာတဲ့ သလိပ်ကို နိုင်အောင် မကုနိုင်ပါဘူး၊ အင်္ဂလိပ်ဆေးကိုင်တဲ့ ဆရာကို ခေါ်ရပြန်ပါတယ်၊ သူလည်း အဲဒီသလိပ်ကို နိုင်အောင် မကုနိုင်ပါဘူး၊ ကိုရင်က အားနည်းလာတော့ သူကလည်း စိုးရိမ်, ဆိုင်ရာ ဆရာ မိဘတို့ကလည်း စိုးရိမ်လာပါတယ်။

အဲဒီအခါမှာ စာချဘုန်းကြီးများနဲ့ တာဝန်ဆောင် တချို့ကို ခေါ်ပြီးတော့ ကိုရင်ရဲ့ စိုးရိမ်ဖွယ်ကို ပြောပြရပါတယ်၊ ဆေးဆရာတွေတော့ အဖျားထက် သလိပ်ကို မနိုင်ကြတော့ပါဘူး၊ ဒီသလိပ်ဟာ နေဝင်လို့ အေးလာတဲ့အခါ ကြပ်ကြပ်လာတာပဲ၊ ဒီတော့ အအေးကို ကာကွယ်နိုင်ဖို့ရာ တစ်ညလုံး ရင်အုံမှာ ကြပ်ထုပ်ကပ်ပေးရရင် တစ်ကိုယ်လုံးလည်း အအေးမလွှမ်းနိုင်အောင် ကာကွယ်ရရင် ဒီသလိပ်ကို နိုင်စရာရှိတယ်။

ဒါကြောင့် နေဝင်ခါနီး အအေး မများခင်က စပြီး နေထွက်လို့ အအေးပေါ့သည့်တိုင်အောင် ကြားမပြတ်စေဘဲ နာရီဝက်စီ သို့မဟုတ် တစ်နာရီစီ အလဲအလှယ်နဲ့ ကြပ်ထုပ် ထိုးပေးရအောင် အဖွဲ့ ဖွဲ့ကြပါ၊ တစ်ဖွဲ့လျှင် ကြပ်ထုပ်မီးကင်သူ၊ ကြပ်ထုပ် ယူပေးသူ၊ ကြပ်ထုပ်ကို ကိုရင်ရဲ့ ရင်အုပ်မှာ ကပ်ပေးသူဟု သုံးပါး၊ အလုပ် သုံးခု၊ အဲဒီ အလုပ်တွေကို မချွတ်ယွင်းအောင် ထိန်းဖို့ အကြီးအကဲတစ်ပါး၊ ပေါင်း လေးပါး ရှိပါစေ။

စာချဘုန်းကြီးများကတော့ တစ်လှည့်စီ အိပ်ပြီး ထို အဖွဲ့များကို စောင့်ရှောက်ကြပါ၊ ကိုရင်ရဲ့ အသက်ကို တို့ ဆရာ တပည့်တွေ လုယူဖို့ တာဝန်ထမ်းကြပါစို့"လို့ ပြောရပါတယ်။

ဒီအခါမှာ အားလုံး သဒ္ဓါထက်ထက်သန်သန်နဲ့ ပြုစုကြပါတယ်၊ နောက်ဆုံးတော့ သလိပ်ကို နိုင်သည့်အတွက် ကိုရင်လည်း ကျန်းမာလို့၊ အားလုံးလည်း ဝမ်းသာလို့ ဖြစ်ကြရပါတယ်ဘုရား၊ ဒါတွေဟာ အရင်းစစ်ရင် စားအတူ နေအတူ စိတ်ဝမ်းမကွဲဘဲ တစ်သားတည်း ဆရာတပည့်တွေ ညီညွတ် စည်းလုံးရတဲ့ အကျိုးကျေးဇူးတွေပဲဘုရား။"

ဤသို့လျှင် မကုန်နိုင်သော အကျိုးကျေးဇူးတွေထဲက အချို့အဝက်ကို ဖော်ထုတ်တင်ပြထားပါသည်။

## တစ်ခုလျှင် ၄-ပါးစနစ် ဖွဲ့၍ထား

"စုပေါင်းစားသောက်ကြသည်"ဆို၍ တစ်ပွဲလျှင် ၅-ပါး၊ ၆-ပါး၊ ၇-ပါးစသည် စုပြုံ မဖွဲ့ရ၊ တချို့မှာ ကိုယ်နှင့် အလွမ်းသင့်ရာတွေ စု၍ တစ်ပွဲတစ်ခုံ ဖွဲ့ကြ၏၊ တချို့ပွဲက ၅-ပါး၊ တချို့က ၄-ပါး၊ တချို့က ၆-ပါး ဤသို့ အရေအတွက် မတူဘဲ စုပေါင်းကြ၏။

ဆရာတော် အရှင်ဇနကာဘိဝံသ၏ ကျောင်းတိုက်၌ကား ဤသို့ ခွင့်မပြုပါချေ၊ ဆရာတော်က သူ့စိတ်ကြိုက် စီမံထား၏၊ လက်သမားနှင့်တိုင်ပင်ပြီး ဆွမ်းစားပွဲခုံကို ရှည်လျားလျား၊ တစ်ဖက်လျှင် ၂-ပါးစီသာ ထိုင်၍ရသောခုံ (ထောင့်မှန်စတုဂံ)ကို ပြုလုပ်ထားပေသည်၊ ထို့ကြောင့် တစ်ခုံလျှင် ၄-ပါးသာ အတိအကျ ထိုင်၍ ရပေသည်။

ဤသို့ ပွဲတိုင်း ၄-ပါးစီသာ တစ်ခုံ ဖွဲ့ထားခြင်းဖြင့် စားဖွယ် သောက်ဖွယ်ပစ္စည်းများကို ဝေသောအခါ ညီညီမျှမျှ ဝေဖို့ အလွန်လွယ်ကူပါ၏၊ တချို့ပွဲက ၅-ပါး၊ တချို့က ၄-ပါး၊ တချို့က ၆-ပါး ထိုင်နေကြလျှင် ဝေခြမ်းရသူမှာ အခက်အခဲ ဖြစ်၏၊ ကြည်ညိုဖွယ်လည်း မဖြစ်။

ယခုလို ပွဲတိုင်း ပွဲတိုင်း ၄-ပါးကျ စနစ်ကား တစ်ပုံစံတည်း ဝေသွားရုံပင် ဖြစ်၏၊ ဝေခြမ်းရသည်မှာလည်း လွယ်ကူ၏၊ သံဃာတော်များကို ဖူးရသည်မှာလည်း အလွန်ကြည်ညိုဖွယ် ဖြစ်တော့၏၊ မကြည်ညိုသေးသူများလည်း ကြည်ညိုလာကြ၏၊ ကြည်ညိုပြီးသူများလည်း တိုး၍ တိုး၍ ကြည်ညိုကြတော့သည်။ ။

## သပိတ်ဖြင့်သာ ဘုဉ်းပေးရ

တစ်ပွဲလျှင် ၄-ပါးကျစနစ်သာ မကသေး၊ ဘုဉ်းပေးသောအခါတွင်လည်း သပိတ်ဖြင့်သာ ဘုဉ်းပေးကြရ၏၊ ပန်းကန်ပြား စသည်ဖြင့် ထည့်၍ မဘုဉ်းပေးရ၊ ဤသို့ "မူ"ချလိုက်ခြင်းသည် ရှေးဖြစ်ဟောင်းကို အောက်မေ့ဖွယ် ဖြစ်သွားတော့၏၊ မှန်ပါသည်၊...ဘုရားလက်ထက်တော်တုန်းကလည်း သံဃာတော်များမှာ ဆွမ်းခံပြီးလျှင် သပိတ်ဖြင့်ပင် ဘုဉ်းပေးတော်မူကြပါသည်၊ မြတ်စွာဘုရားလည်း သပိတ်ဖြင့်ပင် ဘုဉ်းပေးတော်မူခဲ့ပါ၏၊ ထို့ကြောင့် သပိတ်နှင့် ပတ်သက်၍ လေးလေးမြတ်မြတ် ဖြစ်ဖို့ရာ မိန့်မှာသော ဩဝါဒများ အမြောက်အမြား ရှိခဲ့လေသည်။

ဘုရားဖြစ်တော်မူပြီးနောက် သတ္တသတ္တာဟ အလွန်တွင် တပုဿဘလ္လိက ညီနောင်တို့ မုန့်ကြွက်ကျစ် ကပ်လှူလာကြ၏၊ "အဘယ်ဖြင့် ခံယူရအံ့



ညီညာဖြဖြ ဆွမ်းစံကြ၍ ရသမျှနှင့် ရောင့်ရဲရမည်

နည်း"ဟု စဉ်းစားသောအခါ နတ်မင်းကြီး လေးယောက်က သပိတ်များ ကပ်လှူလာကြသည်၊ ယှင်းသပိတ်ဖြင့် ခံယူတော်မူ၏၊ နောက်တွင်လည်း ယင်းသပိတ်ကို ပရိနိဗ္ဗာန် စံသည့်တိုင်အောင် အသုံးပြုတော်မူသည်ဟု အဆိုရှိ၏။

ဤသို့လျှင် ရှင်တော်ဗုဒ္ဓမှ စ၍ သာဝကပရိသတ်အားလုံး အသုံးပြုခဲ့သော သပိတ်, ယင်းသပိတ်ဖြင့် စားသုံးဘုဉ်းပေးစေသောအခါ ရှေးခေတ်ဟောင်းကို အောက်မေ့ဖွယ်လည်း ဖြစ်၏၊ ရှေးမူဟောင်းစနစ်ကို ပြန်လည် ဖော်ထုတ်ရာလည်း ရောက်တော့သည်။

**တာဝန်ကျဉ်း လက်ငင်းကျေးဇူးရ**

သပိတ်ကိုယ်စီဖြင့် ဘုဉ်းပေးစေသောစနစ်မှာ ရှေးမူစနစ်ဖြစ်သည့်ပြင် တာဝန်လည်း ကျဉ်းသွားစေ၏၊ တာဝန်အတော်များများ ပေါ့ပါးသွားစေ၏၊ သံဃာနည်းသော ကျောင်းတိုက်၌ မသိသာသော်လည်း သံဃာများသော ကျောင်းတိုက်တို့၌ကား သိသာပါသည်။

အထူးအားဖြင့် ယခုကဲ့သို့ အတူတကွ စုပေါင်းဘုဉ်းပေးရသော ကျောင်းတိုက် တို့၌ သပိတ်စနစ်မဟုတ်ဘဲ ပန်းကန်ပြားစနစ်ဆိုပါလျှင် (သံဃာငါးရာကျော်အတွက်) ပန်းကန်ပြား ဆေး၍ မပြီးနိုင်အောင် ဖြစ်ပါမည်၊ ယခုသော်ကား ကိုယ့်သပိတ် ကိုယ်ဆေး, အလွန်တာဝန်သေးသွားတော့သည်။

ဓုတင် ၁၃-ပါးတွင်ကား သပိတ်ဖြင့် ဘုဉ်းပေးခြင်းကို ဓုတင်တစ်ခု ပြုတော်မူထားသဖြင့် အားရစရာ ကောင်းလှပါသည်။

ယခုအခါ အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်၌ သူ့စိတ်ကြိုက် ဆရာတော်က ပြုပြင်ထားသည်၊ ဆရာတော်က မကြာမကြာ မိန့်တတ်သည်မှာ...

"တို့ကျောင်းတိုက်မှာ အနေအထိုင် အဝတ်အစား အပြောအဆို ဝိနည်းကျင့်သုံးမှုဘက်ကတော့ ရှေးကျနိုင်သမျှ ကျစေရမယ်၊ ရှေးစနစ်ကို ပြန်ရမယ်၊ အဲ...အတွေးအခေါ် အယူအဆ အသိဉာဏ်ဘက်မှာသာ ခေတ်မီစေရမယ်၊ ဒါကတော့ နောက်ကျန်မနေရစ်စေနဲ့, တတ်နိုင်ရင် ခေတ်ရှေ့က ပြေးပြီး ခေါင်းဆောင်လုပ်ရမယ်" ဟုသတည်း။ ။

# ယထာလာဘသန္တောသ (ရသမျှနှင့် ကျေနပ်ကြ)

**နှုတ်ဖြင့်ပြောဆို မတောင်းရ**

ဆရာတော်က မဟာဂန္ဓာရုံကျောင်းတိုက်သို့ ရောက်လာခါစ တပည့်များကို သတိထားဖို့ ဩဝါဒပေးတော်မူလေ့ရှိ၏။ "မင်းတို့ ဆွမ်းမဖိတ်ကြနဲ့, ရသမျှနဲ့ ကျေနပ်ပါ, ကိုယ့်ကိုယ်ကို ကျေနပ်တတ်အောင်လည်း အလေ့အကျင့် လုပ်ကြပါ။ သင်္ကန်း ကျကျနနရုံ, စက္ခုန္ဒြေချ, ရှေ့ကို လေးတောင်ခန့်မျှသာ ကြည့်, မနှေးမမြန်ကြွ, လမ်းမကြီးအတိုင်းလျှောက်, အိမ်ပေါက်ရောက်တော့ (စကားမပြောဘဲနဲ့)ရပ်, တတ်နိုင်လျှင် လောင်းလိမ့်မယ်, မတတ်နိုင်လျှင် ... "ကန်တော့ဆွမ်းပါဘုရား"လို့ ဆိုလိမ့်မယ်, ဆိုတဲ့အခါ ရှေ့ဆက်သွား, ဒါပဲပေါ့, ဒါ သူတော်ကောင်းတို့ရဲ့ ထုံးစံပဲ"

"ဆွမ်း မပြည့်စုံလို့, ဆွမ်းဟင်းမပြည့်စုံလို့ဆိုပြီး မဖိတ်ကောင်းဘူး၊ လောင်းပါ, လှူပါလို့ မပြောကောင်းဘူး၊ သူပေါဒနဝိညတ္တိသိက္ခာပုဒ်အရ အာပတ်သင့်တယ်၊ ဂိလာနမဟုတ်ဘဲနဲ့ မတောင်းကောင်းဘူး၊ ... တို့အမရပူရ (ဆွမ်းဟင်းမလုံလောက်ရင်သာ ရှိရမယ်) ဆွမ်းကတော့ ပြည့်စုံအောင် ရနိုင်ပါတယ်၊ ဟင်းမရခဲ့ပေမယ့် အားမငယ်ကြနဲ့, နေ့စဉ် ပွဲတိုင်းပွဲတိုင်း တစ်ပွဲလျှင် ဟင်းနှစ်ခွက်တော့ ဘုန်းကြီးက ပေးနေတာပဲ၊ ဒါဆိုရင် စားလို့ဖြစ်တာပဲ, တော်ရောပ, ပါဠိစပ်ကို အလိုမလိုက်ကြနဲ့,ထိုက်သလောက်နဲ့ကျေနပ်ကြ"

**မျက်နှာပူတဲ့ဘဝ ကိုယ်တိုင်ကြုံခဲ့ရ**

"ငါ ငယ်ငယ်က...ပခုက္ကူ သွားစာသင်တော့ မျက်နှာပူတဲ့ဘဝ ကြုံခဲ့ရတယ်၊... ရောက်လို့ သုံးရက်လောက်ရောက်တော့ အာဂန္တုအဖြစ်နဲ့ ဆရာတော်တွေက ကျွေးလို့ စားရပါတယ်၊ အဲဒီရက်က လွန်ရင် ဆွမ်းခံထွက်ရမယ်၊ ဆွမ်းခံထွက်တဲ့အခါ ဆွမ်း-ဆွမ်းဟင်း ပြည့်စုံဖို့ ဆိုပြီး ***ဆွမ်းဖိတ်**ထားတဲ့အလေ့ ရှိကြတယ်၊ ငါ့ကိုလည်း ဆွမ်းဖိတ်ပေးမယ်ဆိုပြီး ဘုန်းကြီးပဏ်ဆိုတဲ့ ကိုယ်တော်ကြီးက ရှေ့ဆောင်တယ်၊ ရပ်ကွက်ထဲသွားကြတော့ သားသားနားနားနဲ့ သပ်သပ်ယပ်ယပ်ရှိတဲ့ အိမ်ကြီးတစ်အိမ်ရှေ့ ရောက်သွားကြတယ်၊ အဲဒီမှာ ငါနဲ့ ရွယ်တူလောက် ရှိတဲ့ အမျိုးသမီးကလေးက အိမ်ဝမှာ ဆန်ဆေးလို့, အိမ်ထဲမှာလဲ လူကြီးတွေ တချို့ မြင်ရတယ်၊ ထုံးစံအတိုင်း အိမ်ဝမှာ ဝင်ရပ်ကြတာပေါ့လေ"

ဒီတော့ အိမ်ရှင်တွေက မေးလျှောက်တယ် "ဘာအလိုရှိပါသလဲဘုရား"တဲ့, ထုံးစံအတိုင်း လျှောက်တာပေါ့, သူတို့သိကြပါတယ်၊ အဲဒီတော့ ဘုန်းကြီးပဏ်က နောက်ကလိုက်လာတဲ့ငါ့ကို လက်ညှိုးထိုးပြီး "ဟောဒီ ကိုယ်တော်လေး...စာသင်ချင်ရှာလွန်းလို့ မိဝေဖဝေးကရောက်လာ"...

အဲဒီအချိန်မှာ သူ ဘာတွေ ရှေ့ဆက်ပြောတယ်တော့ ငါ မကြားတော့ဘူးဟေ့, ငါ့မှာ ရှက်လွန်းလို့ ခေါင်းတွေ နားပန်းတွေ ကြီးလာပြီး ပူထူသွားတော့တယ်, မျက်စိတွေလဲ မမြင်ရတော့ဘူး၊ အဲဒီတင် တစ်ချိုးတည်း ငါနောက်ပြန်လှည့် သုတ်ခြေတင် ပြေးလာခဲ့တော့တာပဲ၊ ကျောင်းရောက်မှ အိပ်ရာထဲ စိတ်မောကိုယ်မော ပစ်လှဲပြီး ဝမ်းနည်းပန်းနည်း ဖြစ်ခဲ့ရဖူးတယ်"

**ကိုယ့်စိတ်ကိုယ် အားတင်းခဲ့**

"ခက်ပြီ...ငါတော့ ခက်ပြီ, ဘယ်နှယ့် လုပ်ရပါ့မလဲ,... (မြောင်းမြဆရာတော်လောင်း) ဆရာဘုန်းကြီးက ငါ့ကို နိကာယ်ငါးရပ် ပိဋကတ်တွေ အနက်ဉာဏ်ကြီးစေချင်လို့ ပခုက္ကူကို လွှတ်လိုက်တာ, ငါကလည်း ဒီဆွမ်းကိစ္စနဲ့ တစ်ဒုက္ခ၊

---

* **ဆွမ်းဖိတ်သည်** ဆိုသည်မှာ...အများအားဖြင့် ညနေပိုင်းခန့်တွင် ရပ်ကွက်ထဲသွား, ရလောက်မည် ထင်သည့်အိမ်ကို ဝင်, မိမိဆွမ်းခံလာသည့်အခါ ဆွမ်း-ဆွမ်းဟင်း လောင်းဖို့ ပြောရသည့်အလုပ်ကို ဆိုလိုသည်။

ဘယ့်နှယ်လုပ်ရပ့်၊ ရင်တလှပ်လှပ် ဖြစ်ခဲ့ရတယ်၊ နောက်တော့မှ ဟယ်...ခုဖြစ်ရတဲ့ကိစ္စက ဆွမ်းမရတာမှ မဟုတ်ဘဲ၊ ဆွမ်းဖိတ်တဲ့ ကိစ္စကိုသာ ငါဝန်လေးနေတာ၊ ဒီတော့ ဆွမ်းမဖိတ်ဘဲ ငါ ဆွမ်းခံမယ်၊ အိမ်ထဲမဝင်ဘဲ ရပ်မယ်၊ မီရင် လောင်းလိမ့်မယ်၊ မမီရင် ငါက ရှေ့ဆက်သွားရုံပဲ၊ ဒါဟာ **ဥဠေနု ယာပေတိ** ဆွမ်းခံရှာမှီးခြင်းဖြင့် အသက်မွေးတယ်ဆိုတာ သူတော်ကောင်းတို့ရဲ့ ထုံးစံအလုပ်ပဲ...အဲသလို ကိုယ့်စိတ်ကို အားတင်းခဲ့တယ်၊ ဒီလိုနဲ့ ဆွမ်းမဖိတ်ပါဘူး၊ အိမ်စဉ်လျှောက်ရပ်ပါတယ်၊ ဘုံလောင်းကိုလည်း သွားတယ်၊ အဲလိုပဲ ရသမျှနဲ့ မျှတခဲ့တာပဲ၊ ဖိတ်ထားတဲ့သူလောက်တော့ ဆွမ်းဟင်းမပြည့်စုံဘူးပေါ့၊ ရလာတဲ့ ဟင်းကလဲ အများအတွက် ချက်ရတဲ့ ဘုံလောင်းဟင်းဆိုတော့ ဆီတို့ ပျားတို့နဲ့ စိုစိုဖတ်ဖတ် ဝင်းဝင်း စက်စက် သိပ်မရှိဘူးပေါ့၊ တစ်ခါတော့...ငါ့ထက် နည်းနည်းကြီးတဲ့ မိတ်ဆွေတစ်ပါးက ဆွမ်းခံ ပြန်လာတဲ့ ငါ့နဲ့ ကျောင်းပေါက်ဝမှာ တွေ့တယ်၊ ငါ့သပိတ်ကို သူ လှပ်ကြည့်တယ်၊ ဆွမ်းတို့ ဟင်းတို့က စားချင်စရာ သိပ်မဟုတ်တော့..."မင်း လောက်သာ ဆင်းရဲရင် ငါတော့ စာသင်မနေတော့ဘူး"တဲ့... သူက အားပေးသွားရှာတယ်၊ ငါ့မှာတော့ အောက်သက်သက်ပေါ့ ဒါနဲ့ ငါခံပြင်းလွန်းလို့ တေးထပ် တစ်ပုဒ် ရေးတယ်ပေါ့, ဘာတဲ့, အင်း ...

**ရွှေနန်းရှင် သဗ္ဗညုသို့, ကပ်ဝင်လုခါတွင်,**
**နတ်တွင် လူ့ပဝရာသခင်တောင်, တစ်ခါစဉ်ဆီက,**
**ဆွမ်းအတွက် ပဏ္ဏဝါပေါ်မှာ,**
**ကြံရှာတော်မူဖူးခဲ့သဖျာ့။**
**ရှေးဝဋ်ကြောင့် ဓနစံရှာ, ဝေရံဇာပြည်မ,**
**ခြွေရံပါ မကြည်မြအောင်ပ, ထွီစရာ့ဘောခဉ်,**
**မုယောဆန် သုံးဆောင်မွေ့နဲ့ရ,**
**ဘုန်းရောင်ငွေ့ တောက်တဲ့အရှင်။**
**ထုံးဆောင်၍ နှောင်မဲ့ရှင်သော်,**
**ကြောက်ပွယ်အင် ဘာမရှိပါဘူး,**
**ပါကဋ္ဌ မဟုတ်ကြ လူမှာ, နုပ်စွ သူ ငါ,**
**အစာအတွက်ကြောင့် ချွာမထွက်ပါတယ်,**
**ဘာအတွက်တာ ပူရပါချိမ့်လေး။... တဲ့။**

**အခိုပွာယ်အကျယ် ရှင်းလင်းချက်**

ဘုရားအလောင်း သိဒ္ဓတ္ထသည် နန်းတော်ကြီးကို စွန့်၍ တောထွက်ခဲ့၏၊ လမ်းခရီး ရာဇဂြိုဟ်မြို့တွင်းသို့ ဝင်၍ ဆွမ်းခံသည်၊ မြို့အပြင်ထွက်၍ ပဏ္ဍဝတောင်ခြေမှာ ဆွမ်းဘုဉ်းပေးမည်အပြုတွင် သပိတ်ထဲ၌ ပြောင်း, ဆတ်, လူး, ဂျုံ အဖုံဖုံရောထွေးလျက် ပါလာသော ဆွမ်းကြမ်းကို ကြည့်ပြီး "ဖြစ်မှ ဖြစ်ပါ့မလား"ဟု ပထမတွင် စဉ်းစားမိ၏၊ နောက်မှ သဗ္ဗညုတဉာဏ်တော်ကြီးကိုပင် ရအောင်ကြိုးစားရမည့်သူက ဤမျှဒုက္ခကလေးကို ကြောက်ရွံ့နေရမည်လောဟု မိမိကိုယ်ကို ဆုံးမ၍ ဘုဉ်းပေးတော်မူဖူး၏။

တစ်ခါတွင်လည်း... ဝေရဉ္စာပုဏ္ဏားကြီးက မြတ်စွာဘုရားအား နောက်ပါ ရဟန်းငါးရာနှင့် အတူ ဝေရဉ္စာမြို့သို့ ကြွလာ ဝါကပ် သီတင်းသုံးတော်မူပါရန် လျှောက်ထားပင့်ဖိတ်၏၊ ထိုပင့်ဖိတ်ချက်အရ ကြွလာတော်မူခဲ့သည်။

သို့သော် မာရ်နတ်က ဝေရဉ္စာပုဏ္ဏားကြီးအား ဘုရားကို မေ့နေအောင် လုပ်ထားသဖြင့် သတိမရခဲ့၊ တစ်ဝါတွင်းလုံး မေ့နေခဲ့သည်။

နောက်ပါ ရဟန်းငါးရာနှင့် အတူ မြတ်စွာဘုရားသည် ဆွမ်းအတွက် အခက်နှင့် ကြုံနေတော်မူရ၏၊ ထိုအခါ အရှင်အာနန္ဒာက မြင်းကုန်သည်တို့ထံမှရသော မြင်းစားပဲ (သို့မဟုတ်) မုယောစပါးကို ဘုရားအတွက် ထောင်းထု၍ နူးညံ့အောင်ပြုပြီးလျှင် တစ်ဝါတွင်းလုံး ကပ်ခဲ့ရသည်၊ ဤသည်တို့ကို ရည်ရွယ်၍ စပ်ဆိုတော်မူခြင်းဖြစ်၏။

(ပါကဋ-ပါကဋိ=ထင်ရှားကျော်ကြားသူ)

"ဗုဒ္ဓရှင်တော်မြတ်သော်မှ ဝေရဉ္စာပြည်မမှာ သုံးလ ဆင်းရဲတော်မူခဲ့ရလျှင် ငါ့လို ထင်ရှားတဲ့လူ မဟုတ်တဲ့သူမှာကား သုံးနှစ် သုံးဘဝ ဆင်းရဲစေကာမူ အဘယ်မှာ ဖြုံအံ့နည်း"ဟု တရားနှင့် ဖြေကာ အားတင်းနိုင်ခဲ့ပါသည်ဟု ဆိုလို၏။

## ပြုပြင်ရေးအားမာန်အပြည့်ဖြင့် အမြဲလို မိန့်တတ်သောစကားများ

**စိတ်တိုင်းကျကျ ပြုပြင်နေခြင်း**

ဆရာတော် အရှင်ဇနကာဘိဝံသသည် ... ပိဋကတ်စာပေမှရသော အသိနှင့် လက်တွေ့အဖြစ်အပျက်တို့ကို ညှိ၍ ယုတ္တိရှိ-မရှိ စိစစ်ကာ ယုတ္တိရှိရာကို အလုပ်လုပ်တတ်၏၊ ပိဋကတ်စာပေထဲ၌... "ရှေးအခါက ရဟန်း သာမဏေများ သပိတ်ဖြင့် ဆွမ်းစားကြသည်"ဟု တွေ့လျှင် မိမိကျောင်းတိုက်မှာ "သပိတ်ဖြင့် ဆွမ်းစားကြရမည်"ဟု ပြင်တော့၏၊ သင်္ကန်းကို သုံးစွဲရာ၌ ပရိမဏ္ဍလဖြစ်အောင် အဝန်းညီညီ မတို မရှည် ဝတ်ရမည်ဟု သေခိယ၌ တွေ့လျှင်... "အားလုံး ဝတ်ကြစမ်း, သင်းပိုင်ရှည်နေလျှင် ဖြတ်ပစ်, တိုလျှင် ဆက်၊ အပ်ချုပ်စက် ရှိတယ်၊ သင်းပိုင်ဝတ်တဲ့အခါ ခါးမှာ နှစ်လိပ်ထက် ပိုပြီး လိပ်လို့မကောင်းဘူး, သုံးလိပ်ဆိုရင်ပဲ ဗိုက်စူလာတယ်, နှစ်လိပ်ဆိုရင် မြဲပါတယ်၊ ပိုတာ ဖြတ်ပစ်, မနှမြောနဲ့၊ ဘုန်းကြီးသင်းပိုင်တောင် နည်းနည်း ရှည်နေတယ်၊ ဦးဉာဏဝံသ ဖြစ်ပေးစမ်း။

ဧကသီရုံတဲ့အခါမှာလည်း (ပဉ္စောင်ပင်လို) ဝန်းဝိုက်လာအောင် ရုံရတယ်, ဒေါက်တီးမောက် ချိုက်နဲ့ စွန်တောင်ဆွဲကြီး မလုပ်ရဘူး၊ ခန္ဓာကိုယ် သေးတဲ့သူက အတွင်းက သင်းပိုင်တစ်ထည် ပတ်လိုက်ဦး, ဒါမှ အနေတော် ကြည့်လို့ကောင်းတယ်၊ တချို့က ပြောတတ်ကြသေးတယ်၊ စာလဲ တော်ပါတယ်, စိတ်ထားသဘောထားလဲ ကောင်းပါတယ်, ဝတ်တာစားတာကသာ ဖရိုဖရဲနဲ့ ပုံမကျ ပန်းမကျ ဖြစ်တာပါတဲ့။

ဘုန်းကြီးဝါဒက အဲသလို မဟုတ်ဘူး၊ စာလဲ တော်ရမယ်, စိတ်ထားသဘောထားလဲကောင်းရမယ်, အဝတ်အစားလဲ ချပ်ချပ်ရပ်ရပ်နဲ့ ကြည်ညိုဖွယ် ဖြစ်အောင် ပုံကျပန်းကျ ဝတ်တတ်ရမယ်၊ ဒါ အရေးကြီးတယ်ကွဲ့၊ လူမှာအဝတ် တောင်းမှာ အကွပ်တဲ့"။

**နိဂြောဓဆိုတဲ့ သာမဏေလေးလို**

နန်းရင်ပြင်အနီးဖြတ်သွားတဲ့ နိဂြောဓ သာမဏေကလေးဟာ အလွန်ကန္ဒြေရတယ်၊ ဝတ်ပုံစားပုံ သင်္ကန်းရုံပုံ ချပ်ချပ်ရပ်ရပ်, သွားတာလာတာက သိက္ခာရှိရှိ ရှေ့တူရှုကိုကြည့်ပြီး မနှေး မမြန် (ကလေးပေမယ့် ကလက်တက်တက် မဟုတ်ဘူး), မျက်နှာအနေအထားက အေးအေး ဆေးဆေး၊ အဝေးက လှမ်းကြည့်ရတာကိုက ကျက်သရေ ရှိတယ်၊ ကြည့်လို့ ကောင်းတယ်၊ ကြည့်လို့ မဝဘူး၊ ဒီတွင် ဘုရင် အသောကမင်းကြီးက "သွားကြဟဲ့, ကိုရင်ကလေးကို လိုက်ပင့်ကြစမ်း"လို့ ခိုင်းတော့တာပဲ၊ ဒါဟာ ပုံပန်းကို မြင်ရုံနဲ့ ကြည်ညိုတာ၊ ကိုရင်ကလေးသန္တာန်မှာ တရားရှိတယ်, မရှိတယ် သူ မသိသေးပါဘူး၊ အဝတ်အစားဟာ အဲဒီလောက်ပဲအရေးကြီးတာ။

အဲဒီ နိဂြောဓသာမဏေလေးကို အကြောင်းပြုပြီးနောက် ဘုရင်ကြီးဟာ သာသနာထဲ ရောက်လာပါတယ်၊ သူဗုဒ္ဓဘာသာဖြစ်လာလို့ သာသနာမှာလဲ အလွန် ကျေးဇူးများသွားပါတယ်၊ အခု ပြောပြောနေကြတဲ့ ရေတွင်းပေါင်း ရှစ်သောင်း လေးထောင်, ရေကန်ပေါင်း ရှစ်သောင်း လေးထောင်, ကျောင်းပေါင်း ရှစ်သောင်း လေးထောင်, စေတီပေါင်း ရှစ်သောင်း လေးထောင် လှူတယ် ဆိုတဲ့ သီရိဓမ္မာသောကမင်းကြီးပေါ့၊ လှူတာတွေကတော့ အသာထားပါ၊ ဒီဘုရင်ကြီး သာသနာကို ကြည်ညိုလာပြီးတဲ့နောက် တတိယသင်္ဂါယနာ တင်တယ်, နောက် သားတော် အရှင်မဟိန္ဒ,

သမီးတော် သံဃမိတ္တတို့ သာသနာတွင်း ရောက်လာကြတယ်၊ သူတို့လဲ နောက်တော့ သီဟိုဠ်ကျွန်းမှာ သိပ်ကျေးဇူးများသွားကြတယ်။

**ကိုးတိုင်းကိုးဌာန သာသနာပြု**

အဲဒီ တတိယသင်္ဂါယနာ အပြီးမှာ ကိုးတိုင်းကိုးဌာနကို သာသနာပြုတွေလွှတ်လို့ တို့မြန်မာပြည်ကိုလဲ သာသနာရောက်လာတယ်၊ ဒါ့ကြောင့် အခု ဒီသာသနာတော်ကို တွေ့နေကြရတာ၊ တို့မြန်မာပြည်သူပြည်သားတွေ သာသနာကို တွေ့နေရတာဟာ အဲဒီက ကျေးဇူးကြောင့်ပေါ့၊ မကင်းဘူး၊ အရင်းစစ်ရင်တော့ နိဂြောဓသာမဏေကလေးက စတာပဲ၊ ဒါကြောင့် အရာရာမှာ သိက္ခာရှိရှိ နေကြပါဟဲ့လို့ ပြောပြောနေရတာ။

နိဂြောဓသာမဏေကလေးရဲ့ သိက္ခာရှိမှုကြောင့် သာသနာတော်မှာ ဘယ်လောက် ခရီးရောက်သွားသလဲ၊ ဒါကိုသာ ကြည့်ပေတော့၊ တို့သာသနာတော်မှာက နေနည်း၊ ထိုင်နည်း၊ ဝတ်နည်း၊ စားနည်း၊ စကားပြောနည်း၊ ကျင့်သုံးနည်း အကုန် ရှိတယ်၊ အစုံ ရှိတယ်၊ အများအားဖြင့် ဆရာသမားတွေက တပည့်လေးတွေကို သင်မပေးကြဘူး၊ သင်ပေးလဲ မလိုက်နာချင်ကြဘူး၊ ဒါတွေကြောင့် ခက်နေတာ၊ အခုကြည့်ပါလား၊...နိဂြောဓသာမဏေလေးကို ဆရာသမားက သင်ပေးထားတယ်၊ သင်ပေးတဲ့ အတိုင်း လိုက်နာတယ်၊ ဘယ်လောက် ကျက်သရေရှိလိုက်သလဲလို့၊ ဘယ်လောက် အကျိုးများသွားသလဲလို့။

**စိတ်ကောင်းရှိဖို့ အရေးကြီးတယ်**

တို့သာသနာမှာ စိတ်ကောင်းနှလုံးကောင်းရှိဖို့ သိပ်အရေးကြီးတယ်၊ ဘုန်းကြီးဝါဒကတော့ နံပါတ်(၁) ထားတာပဲ၊ စာတော်နေရုံနဲ့ မပြီးသေးဘူး၊ စိတ်ကောင်းရှိရမယ်၊ ဝိနည်းကိုလဲ လေးစားရမယ်၊ ဒါတွေဖြစ်နိုင်ဖို့ရာ ကျန်းမာရေးကလဲ ပြည့်စုံဦးမှ၊ ကျန်းမာရေးရအောင်ဆိုတာလဲ သန့်သန့်ရှင်းရှင်း နေတတ်မှ၊ ဒါတွေ ပြည့်စုံတဲ့ အပြင် အဝတ်အစားကိုလဲ ဣန္ဒြေရရ၊ သိက္ခာရှိရှိ ဝတ်တတ်ရတယ်၊ အနေအထိုင်ကျတော့လဲ ကိုယ့်ထက်ကြီးတဲ့သူတွေ၊ ကိုယ့်ဆရာသမားတွေ ရှေ့မှာ အနီးအနားမှာ လေးလေးစားစား နေတတ်ရတယ်၊ အပြောအဆိုဘက်မှာလဲ ချေချေငံငံ ရှိရတယ်၊ ယဉ်ကျေးစေရမယ်၊ သွားတဲ့လာတဲ့ အခါမှာလဲ ကာယိန္ဒြေဆိုတာ ရှိရတာပဲ။

မြတ်စွာဘုရားများ ကြွသွားတော်မူတဲ့အခါ အလွန်ကျက်သရေရှိပါသတဲ့၊ တည်ငြိမ်နေတာပဲတဲ့၊ ဆင်မယဉ်သာများသွားသလို အောက်ပိုင်းခြေထောက်သာ လှုပ်ရှားနေပြီး အထက်ပိုင်းခန္ဓာကိုယ်တော်က ငြိမ်နေတော်မူသတဲ့၊ မနှေးလွန်း မမြန်လွန်း ဖူးလို့မဝအောင် ရှိကြရသတဲ့။

ဒါကြောင့် သွားလာတဲ့အခါမှာ (ဘုရားသားတော်များပီပီ) တည်ကြည်တဲ့ ဣန္ဒြေ၊ သိက္ခာရှိတဲ့ ကိုယ်ကာယဖြစ်အောင် ကြိုးစားကြရမယ်၊ အဲသလို သာမဏေဘဝ၊ ရဟန်းဘဝမှာရှိအပ်တဲ့ စည်းကမ်းအချက်အလက်တွေနဲ့ ပြည့်စုံအောင် ကြိုးစားပြီးမှ စာသင်ဖို့ကို လုံးပမ်းသင့်တယ်၊ စာတတ်ဖို့ကို ကြိုးစားသင့်တယ်၊ ဒါကြောင့်လဲ ဘုန်းကြီးက စည်းကမ်း (၁၀) ချက်ကို အစဉ်အတိုင်းရေးထားတာ"

*ဤကျောင်းတိုက်၌

| | |
|---|---|
| ၁။ စိတ်ကောင်းရှိဖို့က | ... ပထမ |
| ၂။ ဝိနည်းလေးစားဖို့က | ... ဒုတိယ |
| ၃။ ကျန်းမာဖို့က | ...တတိယ |
| ၄။ သန့်ရှင်းဖို့က | ... စတုတ္ထ |
| ၅။ အဝတ်အစားတတ်ဖို့က | ... ပဉ္စမ |
| ၆။ အနေအထိုင်တတ်ဖို့က | ... ဆဋ္ဌမ |

၇။ အပြောအဆိုတတ်ဖို့က ... သတ္တမ
၈။ အသွားအလာတတ်ဖို့က ... အဋ္ဌမ
၉။ စည်းကမ်းလိုက်နာဖို့က ... နဝမ
၁၀။ စာတတ်ဖို့က ... ဒသမ

ဤ(၁၀)ချက်ကို အစဉ်အတိုင်း ဂရုစိုက်၍ လိုက်နာကြရမည်။

**ကုသိုလ်ရဖို့ အဓိကလိုအပ်**

သူများတွေကတော့ စာတတ်ဖို့ကို "ပထမ"ထားကြတယ်၊ တို့ ဒီမှာတော့ နောက်ဆုံး"ဒသမ" ထားတယ်၊ ဘာလို့လဲဆိုတော့ စိတ်ကောင်းမရှိဘဲ ဝိနည်းကိုလဲ မလေးစားဘဲနဲ့ အဝတ်အစုံ အနေအထိုင် အပြောအဆိုလဲ မတတ်ဘဲနဲ့ စာတတ်ရုံ သက်သက်နဲ့ဖြင့် သူ့မှာကုသိုလ်မရပါဘူး၊ သူဟာ သာသနာတော်ကိုလဲ မထမ်းရွက်နိုင်ပါဘူး။

တစ်ခါ ဝိနည်းလေးစားမှုစသော ဂုဏ်တွေနဲ့ အားလုံးပြည့်စုံနေပေမယ့် ကျန်းမာရေး မပြည့်စုံရင်လဲ သူကျိုး ကိုယ်ကျိုး မသယ်ပိုးနိုင်ပါဘူး၊ ဒါ့ကြောင့် စိတ်ကောင်းလဲ ရှိရမယ်၊ ဝိနည်းလဲ လေးစားရမယ်၊ ကျန်းမာရေးစသည်လဲ ပြည့်စုံရမယ်လို့ ဆိုခဲ့တာ၊ စာတတ်ဖို့ဆိုတာကတော့ အဲဒီနောက်မှ။...

ဆိုခဲ့တာတွေ အားလုံးကို ကောက်ချက်ချရင် စာမတတ်လို့ အပါယ်မကျပါဘူး၊ စိတ်ကောင်း မရှိရင် ဝိနည်းကိုလဲ မလေးစားရင်တော့ အပါယ်ကျမှာ သေချာတယ်၊ ဒါကြောင့် စိတ်ကောင်းရှိဖို့ ဝိနည်းလေးစားဖို့ကို ဦးစွာ ပထမ ထားရတာပဟု မိန့်တော်မူတတ်သည်။

## အတွင်းပိုင်း သင်ကြားမှုကလေးများ

**အမိအဖနှင့် သားသမီးလို**

ဝိနည်းမဟာဝါပါဠိတော် မဟာခန္ဓက၌ ဥပဇ္ဈာယဝတ်, သဒ္ဓိဝိဟာရိကဝတ်, ဆရာ့ဝတ်, တပည့်ဝတ်အခန်းများကို လေ့လာကြည့်လျှင် (မိခင်ကြီးက မလိမ်မိုး မလိမ်မာ သားသမီးငယ်များကို တတွတ်တွတ် ပြောဆို ဆုံးမနေသလို) မြတ်စွာဘုရားက အသေးစိတ် မှာကြား ဆုံးမထားသည်ကို တွေ့ရမည်ဖြစ်၏။ စည်းကမ်းကြီး၍ အဆိုအဆုံးမကောင်းသော မိခင်၏အိမ်အတွင်း ခန်းဘက်ကို သွား၍ နားထောင်ကြည့်လျှင် သားငယ် သမီးငယ်များအား တဖွဖွ ဆုံးမနေသံကို ကြားနေရကဲ့သို့ ဖြစ်တော့သည်။

* "ဆရာသမားတို့အနားကို ဖိနပ်ကြီးတရှပ်ရှပ်နဲ့ မသွားနဲ့၊ သင်္ကန်းကို ချပ်ချပ်ရပ်ရပ်နဲ့ ညီညီဝတ်ပါ၊ ဆရာသမားအတွက် မနက်စောစော ရှုပ်လျှင် တံမြက်လှည်းပေး၊ ခရီးသွားရာက အပြန် သင်္ကန်း ချွေးစိုနေလျှင် နေပူဓာ လှန်းပါ၊ အကြာကြီး မလှန်းနဲ့၊ ခေါက်ပြီး သိမ်းပါ၊ ခေါက်တဲ့အခါ (အလယ်ခေါင် အမြဲတမ်း ခေါက်ရိုး ရာကြီး ထင်မနေအောင်) လက်လေးသစ်ခန့် တစ်လှည့်စီ ဟိုဘက်စွန်း အစွန်းရှည်ခေါက်, နောက်တစ်ခါ ဒီဘက် အစွန်းရှည်ခေါက်, သင်္ကန်းတန်း သင်္ကန်းကြိုးပေါ် တင်တဲ့အခါမှာလဲ ပထမလက်နဲ့ သို့မဟုတ် အဝတ်နဲ့ ဖုန်မှုန့်တွေကို ပြောင်အောင် သုတ်ပါဦး, ပြီးမှ တင်ပါ။

သပိတ်ကိုလဲ ထို့အတူပဲ၊ လေးလေးစားစား ကိုင်တွယ်ပါ၊ မထိခိုက်ပါစေနဲ့၊ ပျက်စီး လွယ်မယ်၊ သုံးစွဲပြီးလျှင် ရေစင်အောင်ဆေး, နေပူဓာလှန်း, အကြာကြီး မလှန်းနဲ့။

ဆရာသမား နေမကောင်းလျှင် ဂရုတစိုက်

**စာရိတ္တအခြေခံ ကျင့်ဝတ်များ**

ဤသည်တို့မှာ သာသနာတွင်းသို့ ရောက်လာသောသူတို့၏ အချင်းချင်း ဆက်ဆံနေထိုင်ရေး၊ ပြေပြေလည်လည်ဖြစ်ရေး၊ စိတ်ချမ်းသာရေး၊ သာသနာတွင်း ပိပိပြားပြားရှိရေးတို့အတွက် အတွင်းပိုင်းကျကျ သင်ပြချက်ကလေးများပင် ဖြစ်ကြသည်၊ ဆရာတော်ကား မြတ်စွာဘုရား၏ ဤသင်ပြချက်ကလေးများကို တန်ဖိုးထားတော်မူ၏၊ အသေးအဖွဲဟူ၍ မထီမဲ့မြင် မပြု၊ အနှစ်အသားများပင်ဟု သဘောထားတော်မူ၏၊ သည်မျှမကသေး၊ စူဠဝါ၊ ပရိဝါတို့၌ ပါသောကျင့်ဝတ်များ၊ သေခိယ၌ပါသော ကျင့်ဝတ်ကလေးများပါ တန်ဖိုးကြီးမားကြ၏၊ စာရိတ္တအခြေခံများဖြစ်ကြ၏ဟု သိမှတ်ကာ လက်တွေ့ကျင့်သုံးတော်မူတတ်သည်။

"ကိုရင်တို့...စိတ်ထားကို မြင့်မြတ်အောင်ထားပါ၊ စိတ်ကြီးဝင်ကြစမ်းပါ၊ **စိတ်ကြီးဝင်**ဆိုတာ သူများကို အဖက်မတန်သလို သဘောထားတာမျိုး၊ မမှုသလို ဆက်ဆံတာမျိုးကို ဆိုလိုတာ မဟုတ်ဘူး၊ မြင့်မြတ်တဲ့စိတ်၊ ဖြူစင်သန့်ရှင်းတဲ့စိတ်ကို မွေးပါလို့ ဆိုလိုတာ၊ တစ်ချိန်တုန်းက စိတ်ထားသေးသိမ်ခဲ့ပေမယ့် အခုပြင်ရင်ရတယ်၊ ဘုရားသားတော်ဖြစ်နေပြီ၊ ပြင်ကို ပြင်ရမယ်၊ စိတ်ထားကောင်းဖို့ဟာ ပဌမဖြစ်တယ်" ဟူ၍လည်းကောင်း၊ "စိတ်ကို ပြင်သလို ရုပ်ကိုလဲ ပြင်ရမှာပဲ၊ **ရုပ်ကိုပြင်**ဆိုတာက... မိမိရဲ့ အဝတ်သင်္ကန်းကို သန့်သန့်ရှင်းရှင်း လျှော်ဖွပ်၊ ချပ်ချပ်ရပ်ရပ် ဝတ်တတ်အောင်လေ့ကျင့်၊ အပြုအမူ အပြောအဆိုမှာ ယဉ်ကျေးဖွယ်ရာ ပြောင်းလဲ၊ အနေအထိုင် ကျစ်ကျစ်လျစ်လျစ်၊ ဒါတွေကို ဆိုလိုတာပါ၊ ဟော...ပြောရင်းဆိုရင်း ဟိုကိုရင်ရဲ့ ကေသီကြီးက ဖရိုဖရဲနဲ့ တွဲကျနေပြီ၊ သင်းပိုင်ကလဲ အစကြီးထွက်လို့ ညီလဲ မညီဘူး၊ ညီအောင် ပြင်ဝတ်စမ်း၊ ပြုရန်းစမ်း"ဟူ၍လည်းကောင်း မြင်လျှင်မြင်ချင်း အကြွေးမထားဘဲ ဆုံးမတတ်ပါသည်။

**ပိဋကတ်ထဲမှ ယဉ်ကျေးမှုတွေ**

တစ်ခါတစ်ခါ ဆရာတော်က အားမရနိုင်၍ မြည်တွန်တတ်သည်၊ လူတွေက **ယဉ်ကျေးမှု ယဉ်ကျေးမှု**နဲ့ ပြောပြီး အဲဒီ ယဉ်ကျေးမှုတွေဟာ နိုင်ငံခြားတွေမှာမှ ရှိသလိုလို ပြောတတ်ကြတယ်၊ ပိုက်ဆံရှိတဲ့ နိုင်ငံကြီးတွေ၊ သိပ္ပံထွန်းကားတဲ့ နိုင်ငံကြီးတွေ၊ စက်မှုလက်မှုထွန်းကားတဲ့ နိုင်ငံကြီးတွေမှာမှ ရှိသလိုလို ပြောနေတတ်ကြတယ်၊ အဲဒီနိုင်ငံကြီးတွေက လူတွေမှပဲ ယဉ်ကျေးသလိုလို ထင်ကြတယ်၊ မဟုတ်ပါဘူး၊ ဒီနိုင်ငံမှာလဲ ရှိပါတယ်၊ ဘုရားဟောတဲ့ ပိဋကတ်ထဲမှာ အပြည့်အစုံ ရှိပါတယ်၊ လူတွေက မယူကြလို့၊ ယူပြီး မသုံးကြလို့သာ မရှိသလိုလို ဖြစ်နေတာပါ၊ အသွားအလာ အနေအထိုင် အပြောအဆို အစားအသောက် အမူအကျင့် အကုန်လုံး ဘုရားဆုံးမထားတာတွေ သေခိယထဲမှာ အပြည့်အစုံ ရှိပါတယ်။

"ကဲ...ရယ်တဲ့နေရာမှာလဲ ကြည့်စမ်းပါဦး၊ တဟားဟားနဲ့ (ကာလသားလို) မရယ်နဲ့တဲ့၊ သွားတဲ့လာတဲ့အခါ ကြွေ့ရရ သွားပါ၊ နေတဲ့ထိုင်တဲ့အခါ သိက္ခာရှိရှိနေပါတဲ့၊ အဝတ်အစားကို သပ်သပ်ရပ်ရပ် ဝတ်ပါတဲ့၊ စကားပြောတဲ့အခါမှာလဲ ကျယ်လောင် ကျယ်လောင်နဲ့ မပြောပါနဲ့၊ ရိုင်းရိုင်းစိုင်းစိုင်း အမူအကျင့်တွေကို ရှောင်ပါတဲ့၊ စားတဲ့သောက်တဲ့နေရာမှာ ပလုတ်ပလောင်း မစားနဲ့တဲ့၊ ဆွမ်းလုတ် (ထမင်းလုတ်)ကို အနေတော်ကလေး လုံးလုံးကလေးဖြစ်အောင် ပြုပြင်စားပါတဲ့၊ ပျတ်ပျတ်နဲ့ မမြည်ပါစေနဲ့တဲ့၊ ဟင်းရည်ကို ရှူးရှူးရှူးနဲ့ မြည်အောင် မသောက်ပါနဲ့တဲ့၊ ဆွမ်းလုတ်ကို ခွံ့တဲ့အခါ ဆွမ်းလုတ်မလာခင် ပါးစပ်ကြီးကို ဟမထားပါနဲ့တဲ့၊ ဘယ်လောက်အသေးစိတ် ဆုံးမထားသလဲလို့၊ အပြည့်အစုံ ရှိပါတယ်၊ မလိုက်နာကြလို့ပါ၊ ဒါကို ကိုရင်တို့ လိုက်နာကြရမယ်"၊ ဤသည်တို့ကား ဆရာတော်က မကြာမကြာ ပြောပြ၍ ဆုံးမတတ်သော အတွင်းပိုင်းကျကျ ဩဝါဒကလေးတို့သာ ဖြစ်ကြပါသည်။



"စာလာပေလာအတိုင်း လက်တွေ့ကျင့်သုံးကြပါ"

11.8

## စာလာပေလာအတိုင်း မကျင့်သုံးမိ၍

### ကေမန္တ အဠာသိ သတိမထားမိ

"ဟော-ကြည့်စမ်း၊ မင်း ဘယ်အချိန်က ရောက်နေသလဲဟင်၊ ဘယ်လောက် ကြာပလဲ၊ ဘာလို့ အသံ မပေးသလဲ၊ မင်းချဉ်းကပ်တာကရော မှန်လို့ လား၊ ပြောစမ်း၊ စာတွေ ပေတွေ သင်ထားပြီး လက်တွေ့ကျင့်သုံးတော့ တခြားစီ၊ စာအတိုင်း မကျင့်သုံးဘူး၊ စာထဲက ဘယ်လိုဆိုသလဲ"

ဦးပဥ္စင်းတစ်ပါးသည် ကိစ္စတစ်ခုရှိသဖြင့် ဆရာတော်ထံသို့ သွားခဲ့၏၊ တစ်ဖက်သို့လှည့်၍ စာကြည့်နေသော ဆရာတော်၏ နောက်မှနေ၍ ခြေသံမကြားအောင် သွားကာ ဝပ်ချ၍ စောင့်ဆိုင်းနေသည်၊ ဆရာတော်သည်လည်း မသိ၊ အတော်ကြာမှ စာကြည့်ပြီး၍ အလှည့်တွင် ဆရာတော် မြင်လေသည်၊ ထို့ကြောင့် ဆရာတော်က မေးခြင်းဖြစ်၏။

"**ကေမန္တ အဠာသိ**လို့ ဆိုပါအရှင်ဘုရား"

"ဟုတ်ပြီ၊ အဲဒါရဲ့ အဓိပ္ပာယ်က ဘာလဲ"

"သင့်တော်လျောက်ပတ်တဲ့ နေရာကနေရမယ်လို့ ဆိုပါအရှင်ဘုရား"

"အေး-အခု မင်းနေတာက ကေမန္တဟုတ်ရဲ့လား"

"မဟုတ်ပါအရှင်ဘုရား"

"ဘယ်လို ဖြစ်နေသလဲ"

"နောက်တည့်တည့်က ဖြစ်နေပါအရှင်ဘုရား"

"ကေမန္တမဟုတ်တဲ့ အရပ်ထဲကပေါ့"

"မှန်ပါ အရှင်ဘုရား"

"ကေမန္တမဟုတ်တဲ့အရပ်တွေ ဘယ်နှစ်မျိုးရှိသလဲ"

"ခြောက်မျိုးရှိပါ အရှင်ဘုရား"

"ဆိုစမ်း"

"**ဝေး-နီး-မြင့်မောက်၊ ရှေ့-နောက်-လေညာ၊ ဤခြောက်ဖြာ၊ နေရာအပြစ်မှတ်**လို့ ဆိုပါအရှင်ဘုရား"

### ဆရာတော်က ရှင်းပြခြင်း

"အေး-မှန်တယ်၊ ဝေးလွန်းတဲ့နေရာက နေပြီး ချဉ်းကပ်လို့ရှိရင် စကားပြောတဲ့အခါ (ကြားလောက်အောင်) အော်အော်ပြောနေရတတ်လို့ မှန်ကန်တဲ့ အရပ် မဟုတ်ဘူး၊ တစ်ဖန် နီးလွန်းတဲ့ နေရာက နေပြီး ချဉ်းကပ်ပြန်တော့လဲ ဆရာသမားနဲ့ ထိခိုက်နေခြင်း၊ စကားပြောတဲ့အခါ မိမိရဲ့အာငွေ့အနံ့တွေ ဆရာသမားထံ ရောက်မည်ဖြစ်ခြင်းတို့ကြောင့် မမှန်ဘူး၊ ပြီးတော့ ဆရာသမားထက် မြင့်တဲ့ မောက်တဲ့ နေရာကနေပြီး ချဉ်းကပ်လို့ရှိရင်လဲ မရိုသေရာကျလို့ မဟုတ်သေးဘူး၊ အဲ...ရှေ့တည့်တည့်က နေပြီး ချဉ်းကပ်တာကဖြင့် ရိုင်းရာကျတယ်၊ ကြည့်တဲ့အခါမှာလည်း မျက်စိချင်း တည့်တည့်ဆုံမိတဲ့ အတွက် မကောင်းဘူး၊ မမှန်တဲ့ အရပ်ပဲ၊ ပြီးတော့ နောက်တည့်တည့်ကနေပြီး ချဉ်းကပ်တာကလဲ အခုမင်း ဒုက္ခတွေ့ရသလို ဆရာသမားက မသိရ မမြင်ရဘဲ ကြန့်ကြာနေတတ်တဲ့အတွက် မမှန်သေးတဲ့ အရပ်ပဲ။

နောက်ဆုံး... ဆရာသမားများရဲ့ လေညာ (လေတင်)အရပ်ကနေပြီး ချဉ်းကပ်တာကတော့ မိမိရဲ့ကိုယ်နံ့ချွေးနံ့တွေ ဆရာသမားကို သွားပြီး နံစေတယ်၊ အဲဒီအတွက် မမှန်သောအရပ်ပဲ၊ ဒါကြောင့် အားလုံးကိုချုပ်ပြီး (ကေမန္တ)သင့်တော်လျောက်ပတ် မှန်ကန်တဲ့အရပ်ဖြစ်အောင် ဘယ်လိုရွေးမလဲဆိုရင်-

ဆရာသမားနဲ့ မနီးမဝေး၊ ဆရာသမားနဲ့ ခပ်စောင်းစောင်းအရပ်ကလေးမှာ နေရာယူတတ်ရမယ်ကွဲ့၊ မှတ်ထားပါ၊ မင်းတို့တွေဟာ စာတွေပေတွေ သင်ထားပါလျက်နဲ့ တခြားစီ ကျင့်နေကြတယ်၊ စာပေအတိုင်း ကျင့်သုံးကြပါ"ဟူ၍ ဆုံးမဩဝါဒ ပေးလိုက်လေသတည်း။

ဤသည်တို့ကား... မဟာဂန္ဓာရုံကျောင်းတိုက်၌ အတွင်းပိုင်းကျကျ ဆုံးမထားသော ဩဝါဒကလေးတို့သာတည်း။

# ဆဋ္ဌမဆယ်စုနှစ်

၁၃၁၁–၁၃၂၁





ဆရာတော် အရှင်ဇနကာဘိဝံသ၏
အဂ္ဂမဟာပဏ္ဍိတဘွဲ့ရရှိချိန်
သက်တော် (၅၂) နှစ်အရွယ်

## သာမဏေသကျသီဟစိမ်ကိန်းရေးဆွဲပေးခြင်း

### နိကာယ်ငါးဖြာ သိုက်ညွှန်းစာ

ရတနာသိုက်ကိုနှိုက်ယူတူးဖော်နိုင်ရန် နောက်သားနောက်လာတို့အတွက် သိုက်ညွှန်းစာကို ထားခဲ့ကြဘိသို့ ထို့အတူ သုံးလောကထိပ်တင် ဘုရားရှင်ကိုယ်တော်မြတ်ကြီးကလည်း နိဗ္ဗာန်တည်းဟူသော ရတနာသိုက်ကြီးကို ရှာဖွေယူနိုင်ဖို့ရန် ပိဋကတ်သုံးသွယ် နိကာယ်ငါးဖြာ သိုက်ညွှန်းစာတို့ကို ထားတော်မူခဲ့သည်၊ ဤသိုက်ညွှန်းစာတို့သည် အရေးကြီး၏၊ သိုက်ညွှန်းစာများ ပျောက်ကွယ်သွားလျှင် အမြိုက်နိဗ္ဗာန်လည်း ပျောက်ကွယ်သွားမည်၊ သိုက်ညွှန်းစာများ မပျောက်ပါမှ အမြိုက်နိဗ္ဗာန်ကိုလည်း ရှာဖွေတွေ့ရှိနိုင်မည်၊ ထို့ကြောင့်ပင် အရှင် မဟာကဿပ အစရှိသောမထေရ်ကြီးတို့က ထိုသိုက်ညွှန်းစာများ မကွယ်ပျောက်အောင် သင်္ဂါယနာတင်၍ ထိန်းသိမ်းတော်မူခဲ့ကြသည်၊ ဤသိုက်ညွှန်းစာတို့ဖြင့်ပင် မရေမတွက်နိုင်အောင်သော ဗုဒ္ဓသာဝကတို့ နိဗ္ဗာန်အမြိုက်ကို ကြိုက်သလို ရှာဖွေရယူ သုံးဆောင်ခံစားသွားကြရလေပြီ၊ ထို့ကြောင့် ဤသိုက်ညွှန်းစာတို့သည် တန်ဖိုးကြီးမားကြ၏၊ ပျောက်ကွယ်ဖို့ အခွင့်မပေးသင့်ချေ၊ သို့ဖြစ်၍လည်း ပထမ, ဒုတိယ, တတိယ,စတုတ္ထ,ပဉ္စမအထိ အကြိမ်ကြိမ် သင်္ဂါယနာတင်၍ ထိန်းသိမ်းခဲ့ကြသည်၊ ထို့ပြင် လက်တွေ့အားဖြင့်လည်း မထေရ်ကြီးတို့ အဆက်ဆက် မပျက်နေ့ည ပို့ချသင်အံ စာသင်တိုက်ကြီးများ ဖန်လျက် ဟန်ဟန်ပန်ပန် ကျကျနန ထိန်းသိမ်းခဲ့ကြ၏၊ ဆိုင်ရာဆိုင်ရာ တိုင်းပြည်ဦးကင် ရှင်ဘုရင်တို့ကလည်း အားပေးခဲ့ကြသည်၊ ဤသို့လျှင် ကိုယ့်ထီးကိုယ့်နန်း ကိုယ့်ကြငှန်း ဖြင့် လျှမ်းလျှမ်းတင်ခဲ့ကြ၏၊ သာသနာထိန်ဝါ အရောင်ဖြာခဲ့နိုင်သည်။

### ပရိယတ္တိသာသနဟိတ

သို့သော် သက္ကရာဇ် ၁၂၄၇ ခု တန်ဆောင်မုန်းလသို့ ရောက်၍ တိုင်းပြည်ဦးကင် ဘုရင်သီပေါကို တိုင်းတစ်ပါးတို့၏ ဝင်ရောက်ဖမ်းယူခြင်းကို ခံလိုက်ရသောအခါ ထီးကျိုးစည်ပေါက် နန်းစဉ်ပျောက်ရတော့သည်၊ ထိုအခါမှစ၍ မြန်မာလူမျိုးတို့သည်လည်း ကံဇာတာ ညှိုးကြရတော့၏၊ လူမျိုးညှိုးသောအခါ ကိုးကွယ်သောဘာသာလည်း မှိန်ခဲ့ရတော့သည်၊ မှိန်ရာမှ မှေး၍ ရေးရေးသာ ဖြစ်ရတော့မည်ကဲ့သို့ ထင်ရ၏၊ ဤသို့ဖြင့် "ကြာလျှင် ခက်ရချေတော့မည်၊ သာသနာပင် ပျောက်တော့မည်လော" ဟု စိုးရိမ်ရသောအခြေအနေသို့ ဆိုက်ခဲ့၏၊ အစဉ်အလာက အားပေးခဲ့ကြသော ရှင်ဘုရင်တို့လည်း ယခုအခါ မရှိကြတော့ပြီ။

ဤသို့ ဝိုင်းဝန်းစဉ်းစားကြပြီးလျှင် "ဤအတိုင်းသာ ကြည့်နေကြပါလျှင် မကြာခင် ဗုဒ္ဓသာသနာကွယ်ပျောက်ရချေတော့မည်" ဤသို့ သီပေါဘုရင်ပါတော်မူပြီးနောက် ၁၃-နှစ်လောက်အရောက်တွင် စုရုံးတိုင်ပင်ကြကာ မန္တလေးမြို့မှ သာသနမာမက သာသနဒါယကာ လူကြီးလူကောင်းတို့သည် ရှေးရိုးစဉ်လာ ထောက်ပံ့ခဲ့ကြသော ရှင်ဘုရင်များကိုယ်စား မိမိတို့က သာသနာတော်ကို ချီးမြှောက်ဖို့ရာ,... တစ်နည်းအားဖြင့် ... အမြိုက်နိဗ္ဗာန်ကို ရယူဖို့ သိုက်ညွှန်းစာများ မပျောက်ကွယ်ဖို့ရာ ၁၂၆၀-ပြည့်နှစ်တွင် **"ပရိယတ္တိသာသနဟိတအသင်းကြီး"** ကို တည်ထောင်ကြတော့သည်။

တည်ထောင်ပြီးနောက် သာသနာတွင် ထက်မြက်ထူးခြားသော သာသနာ့အာဇာနည်ကောင်းများ, သာသနာတော်ကို စောင့်ရှောက်နိုင်စွမ်းရှိသော ရဟန်းတော်များကို ရွေးချယ်သောအားဖြင့် စာမေးပွဲများပြုလုပ်ကျင်းပပေးခဲ့ရာ ယခုအခါတွင် ပရိယတ္တိလောက၌ သောက်ရှူးကြယ်များပမာ အာဇာနည်သားကောင်းများ ပေါက်ဖွားလာကြရတော့သည်၊ အားရစရာလည်း ကောင်း၏၊ ကျေနပ်စရာလည်း ဖြစ်သည်။

ဤစာမေးပွဲကို **"ပရိယတ္တိသာသနဟိတစာတော်ပြန်ပွဲ"**ဟု နာမည်ပေးထားသော်လည်း သကျသီဟဘုရားကြီး အာရုံခံတန်ဆောင်းထဲ၌ ကျင်းပပြုလုပ်ကြသောကြောင့် **"သကျသီဟစာမေးပွဲ"**ဟူ၍သာ နာမည်တွင်လေသည်၊ မြန်မာပြည်တွင် အခက်ဆုံး စာမေးပွဲဟူ၍လည်း ကျော်ကြားသည်။

## ရဟန်းရော သာမဏေပါ

အသင်းကြီးသည် ထူးခြားသောပါရမီရှိသူ ရဟန်းတော်များကိုသာမက ထူးခြားသောပါရမီနှင့်အရည်အသွေး တောက်ပြောင်သော သာမဏေတို့ကိုပါ ဖော်ထုတ် ချီးမြှောက်၍ အောက်ခြေမှ စပြီး ပျိုးထောင်ဖို့ရာ အသင်းကြီးတည်ထောင်ကတည်းကပင် အသင်း၏စည်းမျဉ်းတွင် ပါဝင်ပြီးဖြစ်သည်။

ဘုရားလက်ထက်တော်တုန်းကလည်း ပါရမီရှိသော သာမဏေတို့ကို ဖော်ထုတ်ချီးမြှောက်တော်မူလေ့ရှိ၏၊ *တစ်ခါသော် သာမဏေပေါင်း ငါးရာခန့်မျှ ရှိသည့်အနက်က **သုမန**သာမဏေကလေး၏ အစွမ်းကို ဖော်ထုတ်ချီးမြှောက်တော်မူလိုသဖြင့် "ငါဘုရားသည် အနောတတ်အိုင်မှ ရေဖြင့် ခြေဆေးတော်မူလိုသည်၊ စွမ်းနိုင်သောသာမဏေ သွား၍ယူပစေ"ဟု အရှင်အာနန္ဒာကို စေခိုင်းရာ သာမဏေငါးရာထဲမှ အငယ်ဆုံး ၇-နှစ်အရွယ် ကိုရင်သုမနကလေးက ကောင်းကင်ယံမှ ဈာန်ဖြင့်ကြွ၍ဟိမဝန္တာ အနောတတ်အိုင်မှ အေးမြကြည်လင်သောရေစင်ကို ယူပေးခဲ့ဖူးလေသည်။

**တစ်ခါတွင်မူ အရှင်သာရိပုတ္တာမထေရ်မြတ်၏ အထွေးဆုံး ညီကလေး ကိုရင် **ရေဝတ**ကလေး နေထိုင်ရာ ရှားတောကြီးသို့ ကြွကြရာတွင် ရဟန်းငါးရာနှင့်အတူ ဘုရားရှင်ကိုယ်တော်တိုင် လိုက်ပါချီးမြှောက်တော်မူဖူးသည်၊ ထို့ပြင် ကိုရင်**ပဏ္ဍိတ**ကလေး, ကိုရင်**သုခ**ကလေးတို့ တရားအားထုတ်ရာတွင် အရဟတ္တဖိုလ်တိုင် ချောချောမောမော ဆိုက်ရောက်အောင် နတ်မင်းကြီးလေးပါး, သိကြားမင်းနှင့်အတူ ဘုရားရှင်ကိုယ်တော်တိုင် အစောင့်အရှောက်ပေးတော်မူခဲ့ဖူးသည်။

ဤသို့လျှင် ဘုရားရှင်ကိုယ်တော်တိုင် ရဟန်းဖြစ်စေ, သာမဏေဖြစ်စေ ဖော်ထုတ်ချီးမြှောက်သင့်သော ပုဂ္ဂိုလ်တို့ကို ဖော်ထုတ်ချီးမြှောက်တော်မူသကဲ့သို့, ထို့အတူ ဤမန္တလေးမြို့ ပရိယတ္တိသာသနဟိတအသင်းကြီးကလည်း သာသနာတော်ကို စွမ်းစွမ်းတမံစောင့်ရှောက်နိုင်မည့် အရည်အသွေးမျိုး ရှိသောသာမဏေတို့ကို ဖော်ထုတ်ချီးမြှောက်ရန် စီမံကိန်းရှိပြီးဖြစ်လေသည်၊ သို့ရာတွင် အသင်း၏အခြေအနေ ရန်ပုံငွေအနေအထားတို့ကို ငဲ့၍ စောင့်ဆိုင်းနေခဲ့ကြရာ နှစ်ပေါင်း-၅၀ပင်ကြာညောင်းသွားလေသည်။

## နှစ်ငါးဆယ်မှ ပွင့်ရသည့်ပန်း

ဤသို့ နှစ်ပေါင်း-၅၀ ကြာညောင်းသွားရာ ၁၃၁၀ (၁၉၄၈-၄၉) ခုနှစ် နောက်ပိုင်းသို့ ရောက်သောအခါ အသင်းကြီးမှ သာသနမာမက လူကြီးလူကောင်းတို့သည် ဤကိစ္စကို မဖြစ်မနေ ဖော်ထုတ်ဖို့ အခွင့်သင့်ချေပြီဟု တညီတညွတ်တည်း စုရုံးတိုင်ပင်ကြပြီးလျှင်

၁။ သာမဏေစာမေးပွဲတည်နေပုံ

၂။ ခွဲခြားသင့်သောအတန်းများ

၃။ ပြဋ္ဌာန်းသင့်သော ကျမ်းစာများ

၄။ ဖြေကြားရမည့် အချိန်ကာလ

၅။ မေးခွန်းထုတ်ရမည့် ပုံဟန်စနစ်တို့ကို အဆစ်အပိုင်းကျကျ စီမံပေးဖို့ရန် ဆရာတော်အရှင်ဇနကာဘိဝံသထံ လာရောက်ချဉ်းကပ်ကြတော့သည်၊ ဆရာတော်အရှင်ဇနကာဘိဝံသသည် စာမေးပွဲတစ်ခု၏ စနစ်ကို အသစ်တည်ထွင်ကာ ပုံပန်းဖော်ရမည်ဆိုသဖြင့် အလွန်ဝမ်းမြောက်သွားတော်မူ၏၊ အဘယ့်ကြောင့်ဆိုသော် ယခုလက်ရှိပထမငယ်,ပထမလတ်,

---

* ဓမ္မပဒအဋ္ဌကထာ၊ ဆဋ္ဌ၊ ဒု-၃၉၁၊

** ဓမ္မပဒအဋ္ဌကထာ၊ ပ-၃၅၉၊ ၃၆၆, ဒု-၅၅၊



ဆရာတော် အရှင်ဇနကာဘိဝံသကို မဟာစည်ဆရာတော်ဘုရားကြီးနှင့်အတူ ဖူးတွေ့ရပုံ

ပထမကြီး, ဓမ္မာစရိယအတန်းတို့၏ ကျင့်သုံးနေပုံ စနစ်ကို အပြည့်အဝ ကျေနပ်ခြင်းမရှိသောကြောင့် ဖြစ်ပေသည်။

ယင်းစာမေးပွဲတို့၏မေးခွန်းမေးပုံတို့မှာ ကျမ်းရင်း စာသားကို မွှေနှောက်၍ အသိဉာဏ်ကို ပွင့်လင်းစေသော မေးခွန်းမျိုး, သဒ္ဒါတရားကို ပွားစေသော မေးခွန်းမျိုး, စိတ်ကောင်း နှလုံးကောင်းထားစေသော မေးခွန်းမျိုး, ယဉ်ကျေးမှုကို ဖြစ်စေသောမေးခွန်းမျိုး မဟုတ်ကြဘဲ သက်သက်ကိုယ်ရည်သွေး၍ အခက်ပြိုင်နေကြသော ပွဲမျိုးသာ ဖြစ်နေသောကြောင့်ပေတည်း။

အခြေခံပိုင်းဖြစ်သော ငယ် လတ် ကြီးတို့၌ သဒ္ဒါ သင်္ဂြိုဟ် စသည်တို့ကို ဦးစားပေးရခြင်းမှာ ရှိပါစေဦးတော့, အမြင့်ဆုံးအတန်းဖြစ်သော ဓမ္မာစရိယတန်း၌ပင် သဒ္ဒါနည်း, သင်္ဂြိုဟ်နည်း, ဉာသ်ကောက်, နေတ္တိထုတ်, စုဒ်စောဒနာ, ဝါကျခွဲ, ဝိဂြိုဟ်ကျဉ်း, ဥပစာ, နည်းလေးဆယ် စသည်တို့ဖြင့် အမွှမ်းအမံ အခြယ်အသတို့ကိုမေးရင်း အချိန်ကုန်နေ၍ လိုရင်းပဓာန အနှစ်အသားသို့ မရောက်ကြသောကြောင့် မကျေနပ်ခြင်း ဖြစ်နေပေသည်၊ ထို့ကြောင့် မိမိ ထံမှောက်သို့ ရောက်လာသော ဤစာမေးပွဲမှာ မိမိ သဘောကျ ပုံဖော်ရတော့မည်ဟု အတိုင်းမသိ ဝမ်းသာသွားခြင်းနှင့်အတူ အောက်ပါအတိုင်း စိတ်ပါလက်ပါ စည်းမျဉ်းဥပဒေများ ရေးဆွဲပေးတော်မူခဲ့လေသည်။

အတန်းခွဲပုံများ, ပြဋ္ဌာန်းသောကျမ်းစာများ, မေးရမည့် မေးခွန်းပုံများကိုလည်း ဆရာတော်က သူ့သဘောကျ စီမံ၍ ညွှန်ပြတော်မူလေသည်၊ ထိုအခါမှ စ၍ "သာမဏေသကျသီဟစာမေးပွဲကြီး" သည် အနှစ်ငါးဆယ်ကြာမှ ပွင့်ရသော ပန်းကဲ့သို့ လန်းလန်းဆန်းဆန်း စွင့်စွင့်ကားကား ဖားဖားဝေဝေ ပွင့်ပေါ်၍လာခဲ့ကြရပေသည်။

## မန္တလေးမြို့ ပရိယတ္တိသာသနဟိတအသင်း သာမဏေရ စာတော်ပြန်နိဒါန်း

### ရှေးပုဂ္ဂိုလ်များ၏မြင်မြော်ပုံ

မြန်မာမင်းတရားတို့ သာသနာတော်ကို ချီးမြှောက်တော်မူစဉ်အခါဝယ် ကျမ်းဂန် တတ်မြောက်တော်မူပြီး ဆရာတော်များကို ရာဇဂုရု (မင်းဆရာ)ပြု၍ ချီးမြှောက်ရုံသာမက ဉာဏ် ပဋိဘာန်ထက်သန်သော သာမဏေငယ်များကိုလည်း **ပထမကျော်ဖြန့်**ဟု လျော်ကန်အောင် ရွေးကောက်၍ ချီးမြှောက်တော်မူခဲ့သည့်အားလျော်စွာ ဤပရိယတ္တိသာသနဟိတအသင်းကြီးကို ဦးစွာပထမ တည်ထောင်တော်မူခဲ့ကြသော ဆရာတော်ဘုရားများနှင့် လူကြီးမင်းအများလည်း "သာမဏေများကို သီးခြား ရွေးကောက် ချီးမြှောက်ရန်" ဟူသော ရည်ရွယ်ချက်ကို အပိုဒ်(၇) အဖြစ်ဖြင့် အမြော်အမြင်ကြီးစွာ ထည့်သွင်းတော်မူခဲ့ကြပါသည်။

### အနှစ် (၅၀) ကျော်မှ အလုပ်စနိုင်ပုံ

ဤသို့လက်ဦးပထမကပင် ထူးခြားသောသာမဏေငယ်များအတွက် ရည်ရွယ်ချက်ရှိခဲ့ပါသော်လည်း အသင်း၏ ဝတ္ထုကံအခြေအနေကို ငဲ့ညှာထောက်ထား၍ စိတ်စေတနာ ထက်သန်လင့်ကစား ကိုယ်ထိလက်ရောက် မချီးမြှောက်အားဘဲ အခါအခွင့် မျှော်လင့်လျက်သာ အနှစ်(၅၀)တိုင်ခဲ့ရပါသည်၊ ထိုသို့ အနှစ်(၅၀)မျှ ဆိုင်းငံ့ခဲ့ရသည်ကိုပင် အကြောင်းသင့်ဖို့ ဖြစ်ရပေသည်ဟု တစ်နည်းအားဖြင့် ယူဆထိုက်ပါသည်၊ မှန်၏...

၁။ ယခုအခါသည် (အဋ္ဌကထာမိန့်ချက်အားဖြင့်)
သာသနာတော် တစ်ဝက် ရောက်ဖို့ ရှစ်နှစ်
လောက်သာ လိုတော့ရကား ပရိယတ်ဝန်ထမ်း

ရဟန်းကောင်းများ၏ သာသနာတော်တစ်ဝက် ပြည့်ချိန်ဝယ် ဆဋ္ဌသင်္ဂါယနာတင်ရန် စိတ်အား ထက်သန်တော်မူကြခြင်း။

၂။ ပဋိပတ်ဝန်ထမ်း ရဟန်းအများလည်း ပဋိပတ်တာဝန်ကို တရားတော်နှင့် အညီ လက်တွေ့ ကြိုးစားတော်မူလျှက်ရှိကြခြင်း။

ဤအကြောင်းတို့ကြောင့် ခုအခါ ထူးခြားသော သာမဏေများကို ရွေးချယ်ထားပါလျှင် ထိုသာမဏေများသည် ဆဋ္ဌသင်္ဂါယနာတင်ကိစ္စ၌လည်းကောင်း, ပဋိပတ်ကို လက်တွေ့လုပ်ကိုင်ကြရာ၌လည်းကောင်း အကူအညီများစွာ ရဖွယ်ရှိပေရကား အနှစ်-၅၀ မျှ ဆိုင်းငံ့ခဲ့ရခြင်းသည် (စနစ်ကျကျစာပြန်ပွဲဝင်နိုင်ဖို့ဖြစ်၍) ကောင်းသောဆိုင်းငံ့ခဲ့ရခြင်းဟု ယူဆပါသည်။

## အပျက်ဘက်ကိုလည်း ကျေးဇူးတင်ဖွယ်

ယခုအခါ၌ သာသနာရေးဆိုင်ရာများသည် တချို့အရာတွင် ဘုရားတော်အရ အမြင်မတော်အောင် ဖြစ်နေကြ၏၊ ဒုတိယကမ္ဘာစစ်ကြီး မတိုင်မီက စ၍ လူရောရှင်ပါ ကိုယ်ကျင့်တရား ဆုတ်ယုတ်လာခဲ့ရာ စစ်အတွင်းကမူ စာတတ် ပေတတ် ပုဂ္ဂိုလ်ကျော်တချို့ လူ့ဘောင်ရောက်သွားကြ၍ တချို့ကလည်း လူဝတ်ကြောင်သဖွယ် ကူးသန်းရောင်းဝယ်နေကြသည်ကို တွေ့ကြရသဖြင့် သာသနာ့ဝန်ကို မှန်မှန်ကြီး ဆောင်နေသော ပုဂ္ဂိုလ်များကို မတွေ့မကြုံဖူးသော ဗုဒ္ဓဘာသာဝင် တချို့မှာ သာသနာတော်ကို မလေးစားနိုင်လောက်အောင် ဖြစ်ကြရလေသည်၊ နိုင်ငံခြားစာပေကိုသာ လေ့လာ လိုက်စားခဲ့သော အမျိုးသားတချို့ကား... "သာသနာတော်သည် လောကမှ လွတ်မြောက်ကြောင်း၌သာ တာဝန်ရှိ၍ လောကကြီးပွားရေး၌မူ နှောင့်နှေးပင် နှောင့်နှေးစေသေး၏"ဟုလည်းကောင်း, တချို့ကသော် "သာသနာဆိုတာပင် မရှိ"ဟု ဘူးလေးရာ ဖရုံဆင့်၍ သည်းရင့်စွာ ယူဆလေသည်၊ ထိုသို့ အယူအဆ ရှုပ်ထွေးနေသော အချိန်ကာလဝယ် စတင်ရမည့် စာပြန်ပွဲဖြစ်သောကြောင့်လည်း စည်းကမ်းစနစ် ညွှန်ပြရာတွင် မြော်မြင်ဖွယ် စဉ်းစားဖွယ် ကြိုးစားဖွယ်တွေ များစွာ ပေါ်လာပေရကား ထိုအဖျက်သမားများကိုလည်း တစ်နည်းအားဖြင့် ကျေးဇူးတင်ထိုက်ပါပေသည်။

## အနာဂတဘယသုတ်တော်

လောက၌ သူတစ်ပါးတို့၏ အစွပ်အစွဲခံရ, အဝေဖန်ခံရသည့်အခါ မိမိတို့ကိစ္စကို စနစ်တကျ ပြုပြင်ဖို့သတိရသမျှ အားတက်သရော ရှိလာမှုဟူသော အကျိုးကောင်းများ ထွက်ပေါ်လာရကား ဤစာတော်ပြန်ကိစ္စကိုလည်း စနစ်တကျ ပြုပြင်ရပေလိမ့်မည်၊ ထိုသို့ပြုပြင်ရာဝယ် အနာဂတဘယသုတ်တော်ဖြင့် အနာဂတ်ဘေးကို ထုတ်ဖော်ညွှန်ပြပေရကား ကိုသုတ်တော်ကို အခြေခံထား၍ စဉ်းစားညွှန်ပြရပါလိမ့်မည်၊ အနာဂတဘယသုတ်တော်၌ ဟောတော်မူပုံကား "ဘိက္ခုတို့...အနာဂတ်ဘေးတို့သည် ယခုမဖြစ်ကြသေးသော်လည်း နောင်ခါဖြစ်ကြလိမ့်မည်၊ ထိုဘေးကို သင်တို့ နားလည်ထားသင့်ကြ၏၊ နားလည်ပြီး၍ ထိုဘေးများကို ပယ်ရှားဖို့ရာ (မပေါ်လာဖို့ရာ)ကြိုးစားသင့်ကြသည်၊ ထိုအနာဂတ်ဘေးတို့ကား...အနာဂတ်ကာလ၌ ဘိက္ခုတို့သည် ကိုယ်နေဟန်ထား တိုးပွားမှုမရှိကြ (ကုန္တြေရရနှင့် နေထိုင် ဝတ်စား သွားလာမှုမရှိကြ-ဟူလို) သီလ, စိတ်, ပညာတို့လည်း တိုးပွားမှု မရှိကြဘဲ...

၁။ သူတို့ကိုယ်တိုင် ဥပဇ္ဈာယ်ဆရာကြီးတွေလုပ်၍ တပည့်များကို ရဟန်းပြုကြပေလိမ့်မည်၊ သူတို့တစ်တွေ တပည့်ကို ကိုယ်ကျင့်သီလ, စိတ်, ပညာ တိုးပွားအောင်ကား ဆုံးမနိုင်ကြလိမ့်မည်မဟုတ်၊ ထိုတပည့်များကလည်း ဥပဇ္ဈာယ်ဆရာကြီးလုပ်၍ ရဟန်းပြုပေးကြလိမ့်မည်၊ ဤနည်းအားဖြင့် အဆက်ဆက် ကိုယ်ကျင့်တရားပျက်ပြား၍ ဝိနည်းတရားလည်း အဆက်ဆက်ပျက်ပြားလိမ့်မည်။

၂။ ထိုပုဂ္ဂိုလ်များသည်ပင် နိဿရည်းဆရာကြီးလုပ်၍ တပည့်များကို မဆုံးမနိုင်ဘဲ အဆက်ဆက် ပျက်ပြားလိမ့်မည်။

၃။ ထိုကဲ့သို့ ပုဂ္ဂိုလ်များပင် လေးနက်သောတရား, ဉာဏ်တိုးပွားကြောင်းတရားကို ဟောသည့်အခါ ကိုယ့်ကိုယ်ကိုမြှောက်ခြင်း, သူတစ်ပါးကိုနှိမ်ခြင်း, လာဘ်ရမှုကို လိုလားခြင်းဟူသော စိတ်မည်း စိတ်မှောင်များ ပေါ်ပေါက်လျက် သူတို့ကိုယ်တိုင်ပင် လေးနက်သော တရားသဘောကို သိကြလိမ့်မည်မဟုတ်။

၄။ ထိုကဲ့သို့ ပုဂ္ဂိုလ်များပင် လေးနက်သောတရားကို ဟောလျှင် မနာယူလို, မဆက်ဆံလို, မလေ့လာလိုဘဲ ဘုရားဟော မဟုတ်သော အဖွဲ့အနွဲ့ ဂါထာများကိုသာ နာယူလေ့လာကျက်မှတ်ကြပေလိမ့်မည်။

၅။ ထိုကဲ့သို့ ပုဂ္ဂိုလ်များပင် လာဘ်ပေါများမှုကို လိုက်စားလျက် သာသနာဆုတ်ယုတ်လျော့ပါးမှု၌ ခေါင်းဆောင်ပြုကြလိမ့်မည်။

၆။ ရဟန်းများ သင်္ကန်းကောင်းကောင်း လိုလားခြင်း။

၇။ ဆွမ်းကောင်းကောင်း လိုလားခြင်း။

၈။ ကျောင်းကောင်းကောင်း လိုလားခြင်း။

၉။ သာမဏေမိန်းမ, ဘိက္ခုနီတို့နှင့် ရောနှောကြခြင်း။

၁၀။ (ပရိယတ်,ပဋိပတ်ကိုမကြိုးစားဘဲ)ကျောင်းမှာရှိသော ကပ္ပိယကျောင်းသား, သာမဏေများနှင့် ရောနှောနေထိုင်ကြလိမ့်မည်။

ဤပြခဲ့သော အနာဂတဘယသုတ်တော်လာ ဘေးတို့သည် ယခုအခါ ဖြစ်လျက်ရှိ-မရှိကို ရဟန်းတော်များနှင့် သာသနာပြုမည့် ဒါယကာ ဒါယိကာမတို့ပါ စဉ်းစား၍ သာသနာတော်ကို ပြင်ဆင်မည့် သာမဏေရစာပြန်ပွဲတွင် ထိုဘေးမျိုး မပါဝင်အောင် စီစဉ်ရပါလိမ့်မည်။

**နိဒါန်းပြီး၏။**

**၁။ စာပြန်ပွဲအမည်**

ဤစာတော်ပြန်ပွဲကို "မန္တလေးမြို့ ပရိယတ္တိသာသနဟိတသာမဏေရစာတော်ပြန်ပွဲ"ဟု ခေါ်တွင်စေပါမည်၊ အတိုချုပ်၍ "သာမဏေစာတော်ပြန်ပွဲ"ဟုလည်း ခေါ်နိုင်ပါသည်။

**၂။ စစ်ကျင်းပရာကာလ**

သာသနာတော်နှစ် ၂၄၉၃-ခု မြန်မာနှစ် ၁၃၁၁ ခု နတ်တော်လအတွင်း၌(သို့မဟုတ်)သီတင်းကျွတ်၍ မကြာမီ ကျင်းပရန်ဖြစ်ပါသည်။

**ရှင်းလင်းချက်။** ။သာမဏေများသည် ဝါတွင်း၌ အထူးကြိုးစားထားလေ့ရှိခြင်း, ဆောင်းတွင်းအခါ၌ ကျန်းမာရေး စိတ်မချရခြင်း, ရဟန်းငယ်များ၏ ပရိယတ္တိစာပြန်ပွဲနှင့်(၆)လခန့် ကွာခြားစေလိုခြင်းတို့ကြောင့်နတ်တော်လကို ရွေးချယ်ရပါသည်၊ တစ်နည်းစဉ်းစားပြန်လျှင် တန်ဆောင်မုန်းလပြည့်ကျော်မှ နတ်တော်လအထိ ဥတုပြောင်းချိန်နှင့် ကြုံကြိုက်သဖြင့် ကျန်းမာရေးကို သာ၍စိတ်မချရ၊ ထိုအခါ ဝယ် မြို့သူမြို့သားတို့လည်း ဘုရားပွဲ ကထိန်ပွဲတို့ကို ကြိုးစားခဲ့ပြီးဖြစ်၍ သာသနာရေးဆိုင်ရာပွဲများ၌ ငြီးငွေ့ကြလောက်ပြီ၊ ထို့ကြောင့် သီတင်းကျွတ်၍ မကြာမီ ကျင်းပနိုင်လျှင်လည်း တစ်နည်းကောင်းမည် ထင်ပါသည်။

**၃။ ဝင်ခွင့်ရမည့်သာမဏေများ၏ ဂုဏ်အင်္ဂါများ**

(က) အင်္ဂါချို့ယွင်းချက် မရှိခြင်း၊
(ခ) ကျန်းမာသူဖြစ်ခြင်း၊
(ဂ) အသက် ၁၇ နှစ် မလွန်သေးခြင်း၊
(ဃ) အဝတ်အစား, အသွားအလာ, အနေအထိုင်မှစ၍ ကြွေရခြင်း၊
(င) အပြောအဆို ပြေပြစ်ခြင်း၊
(စ) ဒေါသ, မာန်မာန နည်းခြင်း၊
(ဆ) ဣဿာမစ္ဆရိယ နည်းခြင်း၊
(ဇ) လာဘသက္ကာရ ပဓာနမပြုခြင်း၊
(ဈ) သတ်မှတ်ထားသော ကျမ်းစာကို အပြည့်အစုံ လေ့လာပြီးခြင်း၊
(ည) မြန်မာစကားပြေကို သတ်ပုံသတ်ညွှန်း မှန်ကန်စွာဖြင့် (အထိုက်အလျောက်) ပြေပြစ်အောင် ရေးသားဖြေဆိုနိုင်ခြင်း။

**ရှင်းလင်းချက်။** ။ဤစာမေးပွဲဖြင့် ထူးခြားသော သာမဏေများကို ရွေးချယ်ရခြင်းမှာ ပြည်တွင်း သာသနာရေးသာမက (တတ်နိုင်လျှင် ဘာသန္တရတို့ကိုပါ လေ့လာနိုင်အောင် ဤအသင်းမှ အားပေး၍) ပြည်ပ၌လည်း ဗုဒ္ဓတရားများ ပြန့်ပွားစေရန် ဖြစ်ပါသည်၊ ထို့ကြောင့် ညွှန်ပြခဲ့သော ဂုဏ်အင်္ဂါများသည်

ကေန်ပြည့်စုံရမည့် ဂုဏ်များဖြစ်ကြပါသည်။

(က) အင်္ဂါ ချို့ယွင်းသူကို ဗုဒ္ဓရှင်တော်သည်ပင် သာမဏေပြုခွင့်ပေးတော်မမူဘဲ ပရိသဒူသက ပရိသတ်ကို ကျက်သရေမဲ့စေသူဟု တားမြစ်တော်မူခဲ့ပါသည်။

(ခ) အားအင်ချည့်နဲ့၍ ကျန်းမာရေး ချို့ယွင်းနေသူလည်း ပရိယတ် ပဋိပတ် တာဝန်နှစ်ရပ်လုံးကိုပင် မဆောင်နိုင်ပါ။

(ဂ) ဤစာမေးပွဲ၌ သာမဏေဘဝကပင် အပြည့်အစုံ အောင်ပြီးဖြစ်စေလိုပါသည်၊ သတ်မှတ်ထားသော အဆင့်လည်း သုံးဆင့်ရှိမည်ဖြစ်ရာ ထိုသုံးဆင့်လုံးကို ၁၇ နှစ်မှစ၍ ဝင်နိုင်သူသည် ကေန် အောင်မြင်ပါလိမ့်မည်၊ ထို့ကြောင့် ၁၇ နှစ်ကို စ၍ဝင်ရမည့်နှစ်ဟု သတ်မှတ်ပါသည်၊ (သို့ရာတွင် အသက် ၂၀ ပြည့်သည့်တိုင်အောင် သာမဏေဘဝ၌နေ၍ ဝင်ခွင့်ပေးပို့ရန် သင့်တော်သောကြောင့် ၁၇ နှစ်ကိုလည်း ခြွင်းချက်ပြုသင့်ပါသည်၊)၊ ဤစည်းကမ်းချက်သည် စာမေးပွဲစတည်ပြီးနောက် ၃ နှစ်လောက်ကြာမှ အတည်ဖြစ်ရမည့် စည်းကမ်း ဖြစ်၏၊ ၃ နှစ်အတွင်းမှာမူ အသက် ၂၀ မပြည့်သေးလျှင် အားလုံးကိုပင် ဝင်ခွင့်ပေး၍ တစ်ဆင့်အောင်ပြီးပုဂ္ဂိုလ်ကို ရဟန်းဘဝ၌ နှစ်နှစ်မျှ ဆက်လက်ဝင်ခွင့်ပေးပါသည်။

(ဃ) သာသနာ့တာဝန်ဆောင်ပုဂ္ဂိုလ်သည် ရှေးဦးစွာ မိမိကိုယ်ကို ဝိနည်းတော်နှင့်ညီစွာ အရာရာ ကြ္လန္တေ်ရပြီးဖြစ်စေသင့်ပါသည်၊ အနာဂတဘယ၌လည်း ကာယိန္ဒြေမရခြင်းကို "အဘာဝိတကာယ-မတိုးပွားစေအပ် မမြင့်မြတ်သောကိုယ်ရှိသူ"ဟု ဟောတော်မူပါသည်၊ အရှင်သာရိပုတ္တရာသည် ရသေ့ဘဝ၌နေစဉ် ကြ္လန္တေ်ရရနှင့် ဆွမ်းခံကြွနေသော အရှင်အဿဇိကို မြင်ရ၍ ကြည်ညိုစိတ်ဖြစ်ကာ တရားနာယူပါသည်၊ အသောကမဟာရာဇာလည်း ကြ္လန္တေ်ရရနှင့် ကြွသွားနေသော နိဂြောဓသာမဏေကို မြင်ရသည်မှစ၍ သာသနာ့ဒါယကာ ဖြစ်လာခဲ့ပါသည်၊ ထို့ကြောင့် အနာဂတ်ကာလ၌ သာသနာပြုမည့် သာမဏေများအတွက် ဤ (ဃ) ဂုဏ်အင်္ဂါကို အထူးအရေးကြီးစွာ စိစစ်ရပါသည်။

(င) အပြောအဆိုပြေပြစ်ဟူရာ၌ လူများပြောသလို "ခင်ဗျား, ကျုပ်"စသော အသုံးအနှုန်းများဖြင့် ပြေပြစ်ခြင်းကို မဆိုလိုပါ၊ လေ့လာပြီးသော ကျမ်းစာတို့မှ အကြောင်းအားလျော်စွာ ကောက်ကာငင်ကာ ထုတ်ဖော် ပြောပြတတ်ခြင်း, ကြ္လန္တေ်ရရပြောတတ်ခြင်းများကို ဆိုလိုပါသည်၊ ယခုလက်ရှိအခြေအနေမှ စာချဆရာတော်များတွင် အပြောကောင်း အဟောကောင်းနည်းပါးလှသဖြင့် ဒါယကာဒါယိကာမတို့က ထိုပုဂ္ဂိုလ်၏ဂုဏ်သိန်ကို မသိကြရသောကြောင့် အများအပြားပင် မီးခဲပြာဖုံးဖြစ်လျက်ဆင်းရဲစွာဖြင့် စာပေ ပို့ချနေကြရပါသည်၊ ထို့ကြောင့် အပြော အဟောကိုပါ လေ့လာစေလိုသောကြောင့်လည်းကောင်း, အပြော အဟော မပါလျှင် သာသနာပြုဖို့ မလွယ်လှသောကြောင့်လည်းကောင်း ဤဂုဏ်အင်္ဂါကို အရေးကြီးစွာ ထည့်သွင်းရပါသ်

(စ) သာသနာပြုမည့်ပုဂ္ဂိုလ်သည် ရဟန်းရှင်လူတို့၏ (တစ်ခါတစ်ရံ ဘာသာခြားများ၏) စုံစမ်း မေးမြန်းမှုကို ခံရပေလိမ့်မည်၊ ထိုအခါ ခက်ထန်ခြင်း, မာန်မာနကြီးခြင်းမရှိ၊ ပကတိချိုသာသော စိတ်ဖြင့် ပြောဟော ဖြေဆိုနိုင်မှသာ လိုလားအပ်သောအကျိုး ပြီးပါလိမ့်မည်၊ ထို့ကြောင့် ဤဒေါသ မာန်မာနတည်းဟူသော အဆိပ် အစွယ်ကို သာမဏေဘဝကပင် အလေ့အထလုပ်၍ ပယ်နုတ်ကြရပါလိမ့်မည်။

(ဆ) ယခုခေတ် စာတော်ပြန်တို့သည် တစ်ပါးထက်တစ်ပါး, တစ်တိုက်ထက်တစ်တိုက် သာလွန်လိုသောစိတ်ထား မကင်းကြောင်းကို သိရပါသည်၊ ထိုကြ္လသာမစ္ဆရိယ အစွမ်းအစကြောင့် အချင်းချင်း ကွဲပြားမှုတွေကိုလည်း တွေ့ရပါသည်၊ အနာဂတ်ကာလ၌ သာသနာ့တာဝန်ကား ထိုမျှဖြင့် ပြီးရလိမ့်မည်မဟုတ်ပါ၊ ဆဋ္ဌသင်္ဂါယနာတင်ရန်ကိစ္စ, ပြည်တွင်းသာသနာရေးကို စနစ်တကျဖြစ်စေရန်ကိစ္စ, ပြည်ပ၌ ဗုဒ္ဓဝါဒများ ဖြန့်ဖြူးရန် ကိစ္စ, ပဋိပတ်ဘက်က

လက်တွေ့ပြရန်ကိစ္စ, ဤသို့ကြီးမားသောကိစ္စတို့သည် သာသနာ့ဝန်ထမ်း ရဟန်းတော်များ၏-ကိစ္စသာဖြစ်ကြ၏၊ ဤသို့လျှင် သာသနာပြုဒါယကာ ဒါယိကာမများက အနာဂတ်ရဟန်းတော်များ၏အစွမ်းကို မျှော်လင့်ကာ အသင့်စောင့်ဆိုင်းလျက် ရှိကြပါသည်၊ မိမိတို့စာပြန်ပွဲပုဂ္ဂိုလ်ချင်းမှစ၍ အချင်းချင်း ဣဿာ မစ္ဆရိယ (ကိုယ့်ထက်သာ မနာလိုမှု, သူတစ်ပါး မကြီးပွားစေလိုမှု)များ စွဲကပ်နေကြပါလျှင် ထိုကိစ္စကြီးများနှင့် ထိုက်တန်လိမ့်မည်မဟုတ်ပါ၊ သက္ကပဥှသုတ်တော်၌လည်း **"သတ္တဝါတို့သန္တာန်ဝယ် ဣဿာ မစ္ဆရိယရှိနေမှုကြောင့် တောင့်တတိုင်းအကျိုး မရနိုင်ကြ"**ဟု ဟောတော်မူပါသည်။

ထို့ကြောင့် ထိုတရား နှစ်ပါးကိုလည်း အလေ့အထလုပ်၍ ပယ်ဖြုတ်ကြရပါလိမ့်မည်၊ သာမဏေဘဝကပင် ဤ ဣဿာ မစ္ဆရိယ ဖြစ်စေတတ်သော ဂုဏ်တု ဂုဏ်ပြိုင်မှုများကို သာသနာရေး၌ မလိုလားထိုက်ရကား ဆုထူး (စကောလားရှစ်)ပေးဖို့ တစ်, နှစ်ရွေးခြင်းကိုလည်း ဤစာမေးပွဲ၌ မပြုထိုက်ပါ။

(၈) ပစ္စည်းလေးပါးကို **လာဘ**ဟုလည်းကောင်း, ထို ပစ္စည်း လေးပါးတွင် အထူးတလည် ကောင်းအောင်ပြုပြင်အပ်သော ပစ္စည်းကို **သက္ကာရ**ဟုလည်းကောင်း (သူတစ်ပါးတို့က လေးစားရိုသေမှုကို **သက္ကာရ**ဟုလည်းကောင်း) နာမည် ဂုဏ်သတင်း ကျော်စောခြင်းကို **သိလောက**ဟုလည်းကောင်း ခေါ်၏၊ ထိုအကျိုးများကို လိုလား၍ စာသင်, စာချနေပါလျှင် **အလဂဒ္ဒူပမာ** စာသင်နည်းဟု ဗုဒ္ဓရှင်တော် ဟောတော်မူ၏၊ အလမ္ပာယ်သမားသည် မြွေကို မဖမ်းတတ်ဘဲနှင့် ဖမ်းလေရာ မြွေကိုက်ခံရသည်နှင့်တူစွာ ဗုဒ္ဓစကားတော်ကို လာဘ်စသည်မျှော်၍ သင်သော (ပို့ချသော)ကြောင့် ထိုလာဘ်လာဘမျှော်သော အကုသိုလ်စိတ်က ထိုသူကို သင်နေသမျှ (ပို့ချနေသမျှ) ပေါက်သတ်နေရာ ရောက်သည်ဟူလို၊ ထို့ကြောင့် ဤစာတော်ပြန်ပွဲဝင် ရှင်သာမဏေများသည် ဗုဒ္ဓရှင်တော်၏ကိုယ်စားလုပ်၍"သာသနာ့တာဝန်ကို ထမ်းဆောင်ရမည်"ဟူသော အထက်တန်းဆန္ဒဖြင့် သင်ယူကြစေလိုပါသည်။

သို့ပါ၍ ဤစာတော်ပြန်ပွဲ၌ အောင်မြင်သော ပုဂ္ဂိုလ်များကို အောင်လက်မှတ် ဆက်ကပ်ခြင်းမှတစ်ပါး ပဒေသာပင်ကြီး စသော လှူဖွယ်များသည် ရည်ရွယ်ချက်တွင် မပါဝင်ကြပါ၊ သို့သော် သာသနာကို အလိုအလျောက် သဘောပေါက်၍ ချီးမြှောက်လိုသူများ ပေါ်ပေါက်ပါမူ စာသင်နေချိန်၌ စာအုပ်, ခဲတံစသည်နှင့်တကွ ပစ္စည်းလေးပါးကို မှန်မှန်ထောက်ပံ့နိုင်ဖို့သာ ရည်ရွယ်ပါသည်၊ ထိုပြင် အချိန်ကျ၍ ဘာသန္တရသင်သည့်အခါ စွမ်းနိုင်သလို အကူအညီရစေမှုမှစ၍ သာသနာပြုချိန် အထိ ရှင်သမဏေကို လျစ်လျူရှုမည် မဟုတ်ပါ။

(၅) စာမေးပွဲအကြောင်းကို ကောင်းကောင်းသိပြီးအနေဖြင့် ဤအချက်ကို ရှင်းပြလိုပါသည်၊ အချို့ စာမေးပွဲများသည် ဖြေနည်းရလျှင် မသင်ဖူးသောကျမ်းစာကို အောင်ကြပါသည်၊ တချို့ကား အလွန်မတရားသော"လာဘ်ပေးမှု အပြင်မှ ကူညီဖြေပေးမှု"တို့ဖြင့် အောင်မြင်ကြပါသည်၊ ဤစာတော်ပြန်ပွဲ၌ ထိုသို့ မတရားမှုများကို စောစောက ပိတ်ဆို့ရပါလိမ့်မည်၊ ဖြေနည်းရရုံဖြင့် အောင်နိုင်ခွင့် မရှိရအောင် ကျမ်းရင်းစာသားကို အနှံ့အပြားမေးပါလိမ့်မည်၊ အလွန်မတရားမှုများကို အထူးသတိထားပါလိမ့်မည်၊ ဆိုင်ရာကျမ်းစာများ၌ အစမ်းခံရပါလိမ့်မည်၊ (ထိုစမ်းသပ်ပုံနှင့်ပဋ္ဌာနမူနာများကို နောက်၌ သီးခြားပြထားပါသည်၊) ထို့ကြောင့် သတ်မှတ်ထားသော ကျမ်းစာများ၌ အပြည့်အစုံ လေ့လာပြီးဖြစ်ခြင်းကို စနစ်ကျသော ဂုဏ်အင်္ဂါဟု ယူဆရပါသည်။

(ည) ယခုခေတ်၌ မြန်မာစကားကို ပြေပြစ်စွာနှင့် စနစ်တကျ ရေးနိုင်သော ပုဂ္ဂိုလ်များ အလွန်

နည်းပါးသည်ဟု အစွပ်စွဲခံနေရပါသည်၊ ထို့ကြောင့် ဤစာတော်ပြန်ပွဲဝင် ရှင်သာမဏေတို့မှာ ငယ်ရွယ်စဉ်ကပင် ထိုအပြစ်မှ ကင်းလွတ်စေလိုပါသည်၊ ထို့ပြင်သာသနာပြုရာ၌ အဟောအပြောမကျွမ်းကျင်သောပုဂ္ဂိုလ်ဖြစ်လျှင် အရေးအသားကို အားကိုးရပါလိမ့်မည်၊ ထို့ကြောင့် ပြေပြစ်စွာ ရေးသားနိုင်ခြင်းလည်း အရေးကြီးသောဂုဏ်အင်္ဂါပင် ဖြစ်ပါသည်။

ဤပြခဲ့သော ဂုဏ်အင်္ဂါများနှင့် ပြည့်စုံသော ရှင်သာမဏေများသည် အနာဂတ်ကာလ၌ ဗုဒ္ဓရှင်တော်၏ ကိုယ်တော်စား အနေအားဖြင့် သာသနာ့ကျက်သရေ, တိုင်းပြည်၏ကျက်သရေ ဆောင်နိုင်ကြလိမ့်မည်ဟု မျှော်လင့်၍ ဂုဏ်အင်္ဂါတို့ကို ရွေးချယ်ရပါသတည်း။

**၄။ ကျမ်းစာသတ်မှတ်ချက်**

(က) ဝိနည်းပါဠိတော်၊
(ခ) အင်္ဂုတ္တိုရ်ပါဠိတော်၊
(ဂ) ဓမ္မပဒပါဠိတော် အဋ္ဌကထာ။

**ရှင်းလင်းချက်။** ။ဤစာတော်ပြန်ပွဲသည်... ကျက်ဉာဏ်ကောင်းခြင်းထက် မှတ်ဉာဏ်ကောင်းခြင်း, သဘောစူးရှခြင်း (စာသဘောကို စူးစိုက်စွာ သိနိုင်ခြင်း), ဝီရိယ သမာဓိနှင့်ဆန္ဒ ကောင်းခြင်းတို့ကိုသာ လေးစားသော စာတော်ပြန်ပွဲဖြစ်ပါသည်၊ ထို့ကြောင့် ဗုဒ္ဓရှင်တော်၏ ရွေနှုတ်တော်ထွက် ပါဠိတော်များနှင့်အဋ္ဌကထာစာသွားတို့ကို နည်းရစေရန် ဓမ္မပဒအဋ္ဌကထာကို သတ်မှတ်ရပါသည်၊ သဒ္ဒါ, သင်္ဂဟကိုကား မိမိတို့ရိုးရာအတိုင်း လေ့လာပြီးဖြစ်ကြသည်ဟု ယူဆထားပါသည်၊ ထို့ကြောင့် ပုစ္ဆာ၌ သင်္ဂဟဆိုင်ရာတို့ကို (ညဝါမကျန်) ထိုက်တန်သမျှ ထည့်သွင်း၍ မေးခွန်းထုတ်ပါလိမ့်မည်။

ဆက်ဦးအံ့...ဝိနည်းပါဠိတော်သည် သာမဏေနှင့်တကွ ရဟန်းတော်များ ကျင့်သုံးရမြဲ ကျင့်ဝတ်ဖြစ်၏၊ ထိုဝိနည်းကို နားမလည်လျှင် ကာယိန္ဒြေ ရမှုမှစ၍ အားလုံးချွတ်ယွင်းဖွယ်ရှိပါသည်၊ အင်္ဂုတ္တိုရ်ပါဠိတော်သည် လွယ်ကူ၍ စိတ်ဝင်စားဖွယ်ကောင်းသော အကြောင်းအရာများနှင့်ပြည့်သိပ်နေပါသည်၊ ဓမ္မပဒကား ဝတ္ထုကြောင်းနှင့်တကွ ဗုဒ္ဓရှင်တော်၏နှုတ်တော်ထွက် ဂါထာများဖြင့် မှတ်သားဖွယ်ကောင်းလှ၏၊ ထိုဓမ္မပဒဂါထာများ၏ ဖြားယောင်းသွေးဆောင်မှုကြောင့် ဘာသာခြားမှ ဗုဒ္ဓဘာသာဝင်ဖြစ်လာသူတွေ များလှပေသည်၊ မကြာမကြာ ဓမ္မပဒဂါထာများကို ရွတ်ဆိုကျူးရင့်ကာ ပီတိဖြစ်ပွားလျက် တရားအရသာကို ခံစားနိုင်ကြလိမ့်မည်ဟုလည်း မျှော်လင့်ကာ ဤ ပါဠိတော် အဋ္ဌကထာပါ သုံးရပ်ကို (သာမဏေများနှင့်အထိုက်တန်ဆုံးဟု) သတ်မှတ်လိုက်ရပါသည်။

**၅။ အဆင့်အတန်းနှင့်ကျမ်းစာခွဲခြားခြင်း**

**ပထမအဆင့်** (က) ဝိနည်းမဟာဝါပါဠိတော်၊
(ခ) အင်္ဂုတ္တိုရ်ပါဠိတော် (ဧကနိပါတ်မှ တိကနိပါတ်အဆုံး)၊
(ဂ) ဓမ္မပဒအဋ္ဌကထာ (ယမကဝဂ်နှင့် အပ္ပမာဒဝဂ်အကုန်)။

**ဒုတိယအဆင့်** (က) စူဠဝါနှင့် ပရိဝါပါဠိတော်၊
(ခ) အင်္ဂုတ္တိုရ်ပါဠိတော် (စတုက္ကနိပါတ် မှစ၍ ဆက္ကနိပါတ်အဆုံး)၊
(ဂ) ဓမ္မပဒအဋ္ဌကထာ(စိတ္တဝဂ်မှစ၍ ဒဏ္ဍဝဂ်အကုန်)။

**တတိယအဆင့်** (က) ပါရာဇိကဏ်နှင့် ပါစိတ်ပါဠိတော်၊
(ခ) အင်္ဂုတ္တိုရ်ပါဠိတော် (သတ္တကမှစ၍ အားလုံးကုန်)၊
(ဂ) ဓမ္မပဒအဋ္ဌကထာ (ဇရာဝဂ်မှစ၍ အားလုံးကုန်)။

**ရှင်းလင်းချက်။** ။မဟာဝါပါဠိတော်၌ ဗုဒ္ဓအကြောင်းအရာကို စတည်၍ ရှင်ပြုရဟန်းခံဆိုင်ရာနှင့် ဥပဇ္ဈာယ်ကျင့်ဝတ်စသည်တို့ ပါရှိသောကြောင့်လည်းကောင်း, ပါဠိတော်လည်း ပါရာဇိကဏ်စသည်လောက် မခက်ဘဲ ထပ်တူများစွာ ပါသောကြောင့်လည်းကောင်း မဟာဝါပါဠိတော်ကို ပထမအဆင့်၌ထားပါသည်၊ အင်္ဂုတ္တိုရ်နှင့်ဓမ္မပဒ၌လည်း ပထမအဆင့်ဖြစ်၍ နည်းသင့်သမျှ နည်းအောင် ပိုင်းခြားထားပါသည်၊ ဒုတိယအဆင့် ရောက်သည့်အခါ အနက်ဉာဏ် အတော် တိုးတက်လာမည် ဖြစ်၍ ပထမအဆင့်ထက် များများပိုင်းခြားပြီးလျှင် တတိယအဆင့်ရောက်ချိန်မှာ အနက်ဉာဏ် သာ၍တိုးလာမည် ဖြစ်သောကြောင့် သုံးဆင့်တွင် အများဆုံး သတ်မှတ်လိုက်ပါသည်။

**မှတ်ချက်။** ။တတိယအဆင့်ရောက်လျှင် ဒွေမာတိကာကို ပါဠိအနက်ထင် ဖြစ်စေရပါမည်၊ ဓမ္မပဒ ပါဠိတော်ဂါထာကိုကား ... သုံးဆင့်လုံးမှာပင် ရသလောက်လေ့လာပြီး ဖြစ်စေလိုပါသည်၊ မေးခွန်းတွင်လည်း ဂါထာတို့၏မြန်မာပြန်ကိုပြ၍ ဂါထာအစီ ပါဝင်ပါလိမ့်မည်။

**၆။ ပုစ္ဆာ၌ သဒ္ဒါနှင့်အဘိဓမ္မာသွင်းပုံ**

**သဒ္ဒါ။** ။ဆိုင်ရာအဖွင့်များနှင့်တကွ ကစ္စည်းသဒ္ဒါကိုဖြစ်စေ, သဒ္ဒနီတိကိုဖြစ်စေ, မောဂ္ဂလ္လာန်သဒ္ဒါကိုဖြစ်စေ အလိုရှိရာသဒ္ဒါကို လေ့လာ၍ ဖြေဆိုနိုင်ပါသည်၊ သို့သော် အဖြေ၌ မည်သည့်သဒ္ဒါနည်းအရ ဖြေသည်ဟု အတိအလင်း ညွှန်ပြစေလိုပါသည်။

**ပထမအဆင့်။** ။သဒ္ဒါဆိုင်ရာမှ သန္ဓိပုဒ်စပ် ပုဒ်ဖြတ်နှင့် နာမ် အာချာတ် ပဒမာလာကို ထည့်သွင်း၍ အဘိဓမ္မာဆိုင်ရာမှ စိတ်, စေတသိက်, ပကိဏ်းပိုင်း ဆိုင်ရာကို ထည့်သွင်းမေးပါမည်။

**ဒုတိယအဆင့်။** ။သဒ္ဒါမှ (ပထမအဆင့်၌ပါဝင်ပြီးများနှင့်တကွ)သမာသ်သဒ္ဒါဆိုင်ရာကိုလည်းကောင်း, အဘိဓမ္မာမှ (ပထမအဆင့်ပါဝင်ပြီးများနှင့်တကွ) ဝီထိ ရုပ်ဆိုင်ရာတို့ကိုလည်းကောင်း မေးပါမည်။ (ရုပ်ဝီထိ နာမ်ဝီထိ နှစ်မျိုးလုံးပါဝင်ပါမည်။)

**တတိယအဆင့်။** ။သဒ္ဒါဆိုင်ရာ, သင်္ဂဟဆိုင်ရာအားလုံးနှင့်မာတိကာ, ဓာတုကထာ, ယမိုက်များ အကျဉ်းချုပ်ကောက်ပုံပါ ထည့်သွင်းမေးမြန်းပါမည်။

**၇။ ပုစ္ဆာခွဲဝေခြင်း**

အားလုံးဘာသာများကို (၃)ရက်ဖြေဆိုရပါမည်၊ တစ်ရက်လျှင် နှစ်ကြိမ်ကျ, ၁၂ နာရီခွဲမှ ၂ နာရီထိ တစ်ချိန်, ၂ နာရီခွဲစ၍ ၅ နာရီ တစ်ချိန်၊ တစ်ကြိမ်လျှင် ခုနစ်ပုစ္ဆာ။

**ရှင်းလင်းချက်။** ။သတ်မှတ်ထားသော ဘာသာရပ်၌ နှံ့စပ်ပါဝင်အောင် တစ်ဘာသာလျှင် ပုစ္ဆာ ၁၄ ခုထား၍ နားခွင့်လည်းရအောင် နှစ်ကြိမ်ခွဲခြားပြီးလျှင် နေ့ဆွမ်းစားပြီးနောက် ရေချိုးခွင့် ခေတ္တနားခွင့်ရအောင် ၁၂ နာရီခွဲမှ စ၍ အချိန်ကို သတ်မှတ်ရပါသည်။

**၈။ စမ်းသပ်ပုံ**

စမ်းသပ်ဖို့ရန် ကြေညာဟားသောရက်၌ ဝတ်ပုံ နေပုံနှင့်တကွ စကားပြောစိတ်ထားပုံများကို စမ်းသပ်သောအားဖြင့် သတ်မှတ်ထားသော ဘာသာရပ်များမှ မေးမြန်းလျှောက်ထားဖို့ရန် လူကြီးများ အတော်များများ စုဝေးရာသို့ လေးပါး ငါးပါး တစ်တွဲစီ ပင့်ပါလိမ့်မည်၊ ထိုအခါ...

**လူကြီး** -(ဘွဲ့တော်ကို ခေါ်၍) (ထိုထို၍၍မေးလိုရာမေးပြီးနောက် စကားလက်ဆုံကျလာသည့်အခါ) ဝိနည်းမဟာဝါပါဠိတော်မှာ မြတ်စွာဘုရားနှင့်ဥပက တွေ့ကြတယ်လို့ ဆိုပါတယ်, ဘယ်နေရာမှာ တွေ့ကြပါတုံးဘုရား။

**သာမဏေ** - ဗောဓိပင်နှင့်ဂယာရွာအကြားမှာ တွေ့သတဲ့ ဒကာကြီးရဲ့။

**လူကြီး** - ဥပကကြီးက ဘာတွေမေးတုံးဘုရား။

**သာမဏေ** - "ရဟန်းမြတ် သင့်ရဲ့ဆရာ ဘယ်သူပါလဲ"လို့ မေးတယ် ဒကာကြီးရဲ့။

**လူကြီး** - အဲဒီ့ ဘုရားရှင်က ဘယ်လို ဖြေတုံးဘုရား။

**သာမဏေ** - "ငါ့မှာ ဆရာမရှိဘူး" လို့ ဖြေတယ် ဒကာကြီးရဲ့။

**လူကြီး** - ဘုရားဖြေတဲ့ဂါထာတော့ ရသေးရဲ့လားဘုရား။

**သာမဏေ** - မရဘူး ဒကာကြီးရယ်၊ ကိုရင်တို့ဆရာဘုန်းကြီးက စာမကျက်ရဘူးတဲ့၊ စာကျက်လို့ လေနာနေလျှင် နောင်ခါ စာမချနိုင်, တရားမဟောနိုင်ပေဘူးတဲ့။

**လူကြီး** - မရလဲ နေပါစေဘုရား၊ သိတာသာ လိုရင်းပါ၊ ဒါထက် ဥပဇ္ဈာယ်ယူပုံတော့ မှတ်မိပါရဲ့မဟုတ်လား။

**သာမဏေ** - မှတ်မိပါတယ်။

**လူကြီး** - ပြောပြစမ်းပါဘုရား။

**သာမဏေ** - "ဥပဇ္ဈာယော မေ ဘန္တေ ဟောဟိ"တဲ့။

**လူကြီး** - တစ်ခေါက်တည်းလားဘုရား။

**သာမဏေ** - သုံးခေါက်ဆိုရတယ် ဒကာကြီးရဲ့။

**လူကြီး** - သုံးခေါက်ဆိုပြီးတော့ ပြီးရောလားဘုရား။

**သာမဏေ** - ဆရာက "ပါသာဒိကေန သမ္မာဒေဟိ" လို့ ပြန်ပြီး အမိန့်ရှိရသေးတယ်။

**လူကြီး** - ဒီတစ်မျိုးပဲ မိန့်နိုင်သလားဘုရား။

**သာမဏေ** - ဘာဟုတ်မလဲ၊ "သာဟု, လဟု, ဩပါယိကံ, ပဋိရူပံ" လေးမျိုးထဲကလဲ အလိုရှိရာ မိန့်နိုင်တာပဲ။

**လူကြီး** - ဒီစကားတွေရဲ့ အဓိပ္ပာယ်တော့ သိပါရဲ့ထင်ပါ။

**သာမဏေ** - သိပါတယ်, မေးပါဦးလား။

**လူကြီး** - သာဓုပါဘုရား၊ သာဓု, သာဓု၊ မမေးတော့ပါဘူး၊ ဒီလို သာမဏေနှင့်သာသနာတော်ကြီး ပြုပြင်ရအောင် ကိုရင်တို့ကို ရွှေနေတာဘုရား၊ ကြိုးစားတော်မူပါ၊ ရေးဖြေလဲ အောင်မှာပါပဲ။

ဤသို့သော နည်းအားဖြင့် အခြားသာမဏေများကိုလည်း အကျွမ်းတဝင် မေးမြန်း စမ်းသပ်ပါလိမ့်မည်။

## အနှံ့အတာခံမှ ကြီးပွားရစမြဲ

"ပေပေါ်တင်၍ အထုမခံရသော သံတုံးသည် ဓားလက်နက် မဖြစ်, (သို့မဟုတ်) တန်ဖိုးရှိသော ပစ္စည်းမဖြစ်ဟူ၍လည်းကောင်း, အိုးထိန်းစက်တွင် တင်၍ အလှည့်မခံရသော ရွှံ့သည် အိုးမဖြစ်"ဟူ၍လည်းကောင်း ဆိုရိုးရှိ၏၊ ဆရာသည် တူနှင့်တူ၏၊ တပည့်သည် သံတုံးနှင့်တူ၏၊ ဆရာက ကြီးပွားစေလို၍ ထုကြည့်သည်၊ အထုမခံ၊ ဆရာကိုပင် ပြန်လှန်အံတုတတ်ကြ၏၊ ထိုအခါ ဆရာ၏မေတ္တာ, ဆရာ၏စေတနာဆိုသည်မှာ ရုပ်လုံးမဖော်နိုင်အောင်ဖြစ်၍ လာတော့သည်၊ တစ်ဖန် ဆရာသည် အိုးထိန်းစက်နှင့် တူ၏၊ တပည့်သည် ရွှံ့နှင့်တူ၏၊ ကြီးပွားစေလို၍ အိုးထိန်းစက်တွင် တင်၍လှည့်ကြည့်၏၊ အလှည့်မခံ၊ အဘယ်မှာလျှင် အိုးဖြစ်နိုင်ပါအံ့နည်း၊ ယခုခေတ် အခြေအနေကား ဤသို့ဖြစ်၍လာချေပြီ။

### အနှံ့အတာခံသော ရှင်ဇနက

အရှင်ဇနကာဘိဝံသလောင်းလျာ ရှင်ဇနကကား ထိုသို့ မဟုတ်ချေ၊ ဆရာ၏ဆုံးမဒဏ်ကို အပြည့်အဝ ခံယူသူ ဖြစ်၏၊ ဆရာ၏ တူချက်ကိုလည်း အထုအနှက် ခံသည်၊ ဆရာသည် အတော်အတန်နှင့် ကျေနပ်နိုင်သူမဟုတ်၊ အပြည့်အဝ အတိအကျမှ ကြိုက်သည်၊ မြောင်းမြဆရာတော်ဟူသည်ကား... ဒေါင်ဒေါင်မာ ဒင်းဒင်းပြေးကြီး ဖြစ်၏၊ နည်းနည်းမှ အတိမ်းမခံ၊ လမ်းဖြောင့်လမ်းမှန်ပေါ်မှာ ပြေးနေသော အာဇာနည်မြင်းကို မောင်းနှင်နေသူနှင့်တူလှပေ၏၊ ဘေးတက်လျှင် ဒက်ခနဲနေအောင် တွယ်သည်၊ ဘေးယိမ်းလျှင် ဒိန်းခနဲနေအောင် ဆော်သည်၊ တပည့်ဖြစ်သော ရှင်ဇနကကလည်း ခေလှသူတော့ မဟုတ်ပါ၊ ထက်မြက်ပါသည်၊ သွက်လက်ပါသည်၊ ချက်ချာပါသည်၊ အကင်းပါး နားလည်သူ ဖြစ်ပါသည်၊ သို့ရာတွင် ဤအခြေအနေမျှကိုပင် ဆရာက မတင်းတိမ်နိုင်သေး၊ ရှေ့ဆုံးက ထိပ်ဆုံးက အပေါ်ဆုံးက အမြဲရှိစေလိုဟန်တူ၏။

တစ်ခါက စာချရင်း ဆရာတော်အရှင်ဇနကာဘိဝံသက အကြောင်းစပ်လာ၍ အောက်ပါအတိုင်း ထည့်သွင်း အမိန့်ရှိဖူးသည်။

"မြောင်းမြဆရာတော်လောင်းက ငါ့အပေါ်မှာ မေတ္တာ စေတနာသိပ်ထားတာ၊ ငါ့ကို သိပ်ကြီးပွားစေချင်တာ၊ ငါ့ကို သိပ်တတ်စေချင်တာ၊ ဒါကြောင့် ငါ့ကို ကြပ်မတ်တယ်၊ ဆုံးမတယ်၊ ကွပ်ကဲတယ်၊ ငါလဲ တော်တော်ဉာဏ်ကောင်းတဲ့သူပါ၊ ဒါကိုတောင်သူ အားမရနိုင်ဘူး၊ ငါ့ကို လူတိုင်းရဲ့ထိပ်ပေါ်မှာ အတော်ဆုံးလူ ဖြစ်စေချင်တာ။

ဒါကြောင့်လဲ စာချပြီဆိုရင် သိပ်တိကျစေတာ၊ အလွဲ မခံဘူး၊ အတိမ်း မခံဘူး၊ တစ်ချက် လွဲရင် ဒက်ခနဲ ဆော်တာပဲ၊ ထွေးခံနဲ့ ပေါက်တတ်တယ်၊ ခြေထောက်နဲ့လဲ ကန်တတ်တယ်၊ စာအုပ်နဲ့လဲ ကျောပြင်ကို ချတတ်တယ်၊ တစ်ခါတုန်းက ပလိပ်မြို့ အေးကျောင်းမှာ ငါက ကိုရင်, ဥပုသ်နေ့ဆိုတော့ ငါက စာဝါနားချင်တယ်၊ ဆရာတော်က ပြောတယ်၊

"သူများတွေ ဥပုသ်နေ့ စာဝါနားတယ်ဆိုတာ ဥပုသ်သည်တွေ ရှုပ်နေလို့ နားတာ၊ တို့ကျောင်းမှာက ဥပုသ်သည်မှ မရှိဘဲ၊ လာ...စာဆိုရမယ်"တဲ့၊ ဒီတော့ ငါက စိတ်မပါ့တပါနဲ့ဆိုတော့ စာမှားရော၊ ဒီတွင် ဝပ်နေတဲ့ ငါ့ကျောပြင်ကို စာအုပ်အနှောင့်နဲ့ ထုတော့တာပဲဟေ့"တဲ့၊ "ငါ့မှာ တရှုပ်ရှုပ်နဲ့ ငိုရင်း ဆက်ပြီးဆိုရတယ်၊ စာဝါတစ်ကြိမ်ပြီးလို့ ရပ်လိုက်တော့ ဘယ်တုန်းက ရောက်နေတယ် မသိဘူး, ကျောင်းအောက်က ဒကာမကြီးတစ်ယောက်က "ကိုရင်-သီလပေးပါဦး"တဲ့၊ ဒါနဲ့ သက်နှီးနဲ့ ကပျာကယာ မျက်နှာသုတ်ပြီး ကျောင်းအောက်ဆင်း, သီလပေးရပြန်ရော"၊ ဒီလိုပဲ သီလပေးဖို့ဆိုရင် ငါ့တာဝန်ကွ၊ ဟောဖို့ ပြောဖို့ဆိုရင်လဲ ငါ့အပေါ် လွှဲချတာပဲ၊ သူက စာ တွေသာ ပိဋကတ်တွေသာ ထိတ်ထိတ်ကြဲ တတ်နေတာ, ဟောဖို့ ပြောဖို့ကျတော့ သူ ဝန်လေးတယ်၊ သီလတောင် ပေးတာမဟုတ်ဘူး"။

## မြောင်းမြဆရာတော့်စာဝါ

ဟုတ်ပါလိမ့်မည်၊...မြောင်းမြဆရာတော်ကြီးအကြောင်းကို မော်လမြိုင်မြို့ မဟာမြိုင်ကျောင်းမှ ဘုန်းကြီးဦးကိတ္တိက တစ်ဆင့်ပြောပြ၍ သိရပါ၏၊ "မြောင်းမြပဋ္ဌာနတာရုံတိုက်မှာ ဝါဆိုပြီးလို့ စာဝါတွေ စတော့မယ်ဆိုရင် ဆရာတော်ကြီးက နှုတ်မိန့်၍ ကြေညာတယ်တဲ့၊ ဒီနှစ် တို့က ဘာစာဝါတွေ ချပေးမယ်, ဘယ်နေ့ စမယ်...ဆိုလိုက်ရင် စာသင်သားအသစ်တွေဟာ ဝမ်းသာလွန်းလို့ မြူးနေကြတော့တယ်တဲ့။

အဲ-စာဝါ စတဲ့နေ့မှာဆိုရင် စာသင်သားအသစ်တွေဟာ ဆရာတော်ကြီးအနား ရောက်အောင် သူ့ထက်ငါဦး အစောကြီး တိုးဝှေ့ ချဉ်းကပ်ကြသတဲ့၊ တို့ကတော့ အစင်းသိ အကြောင်းသိမို့ အစောကြီး မသွားပါဘူးတဲ့၊ နောက်ကျမှပဲသွားပြီး ဟိုနားရောက်တော့ နေရာမရလို့ဆိုပြီး လှေကားထိပ်မှာထိုင်ပြီး စာလိုက်တယ်တဲ့၊ စပြီးချတဲ့နေ့...ကောင်းပါတယ်၊ စိတ်လဲရှည်ပါတယ်၊ အဓိပ္ပာယ်လဲ ရှင်းပြပါတယ်တဲ့၊ ဒုတိယနေ့လဲ မဆိုးသေးပါဘူး၊ တတိယနေ့ကျရင်ပဲ စကားပြော နည်းလာပြီ၊ ငူတူတူကြီးလုပ်လာပြီတဲ့၊ စတုတ္ထနေ့မှာတော့ စလာတော့တာပဲတဲ့၊ နည်းနည်းကြမ်းချင်လာပြီ၊ ပဥ္စမနေ့လဲရောက်ရော တစ်ခါတည်း ဝုန်းဒိုင်းနဲ့ ထွေးခံတွေ လွင့်လာတော့တာပဲ၊ ဒီအခါမှာ...တို့က ကျောင်းအောက် ဆင်းပြေး, လမ်းပေါ် ခပ်ဝေးဝေးတောင် ရောက်နေပြီတဲ့။

တို့က သိတယ်, အစကတည်းက ပြေးလို့လွယ်အောင် လှေကားဦးမှာ ထိုင်တာတဲ့၊ သီတင်းမကျွတ်ခင် စာဝါက အရင်ကျွတ်တာပဲတဲ့၊ ပထမပိုင်းတော့ စာလိုက်တွေများတယ်၊ နောက်တဖြည်းဖြည်းနည်းလာတယ်၊ ကြာတော့ ထွေးခံဒဏ် ဖနောင့်ဒဏ်တို့ကို မခံနိုင်တော့တာနဲ့ လစ်ကြတော့တာပဲတဲ့၊ နောက်ဆုံးမှာ စာဆိုတဲ့ပုဂ္ဂိုလ်တစ်ပါးနှင့် ဆရာတော်ကြီးပဲ ကျန်တော့တယ်တဲ့၊ အဲ-တစ်ခုတော့ရှိတယ်၊ စာဆိုတဲ့သူဟာ သူ့ဒဏ် ခံနိုင်ရင်တော့ စာတတ်တော့တာပဲတဲ့၊ တို့ဆရာတော်ကြီးက စာချတဲ့နေရာမှာ အဲဒီလောက်ကို တင်းတာ"တဲ့၊ ဘုန်းကြီးဦးကိတ္တိက ပြောပြပါသည်။

အရှင်ဇနကာဘိဝံသလောင်းလျာ ပေါင်ဒွေးလွင်ကလေး ၁၃ နှစ်အရွယ်မှာ မြောင်းမြဆရာတော်လောင်းက သက်တော် ၂၄ နှစ်, သိက္ခာတော် ၅ ဝါလောက် ရှိနေပါပြီ၊ ထိုအချိန်ကပင် စိတ်မထင်သည့်အခါ "သယ်...ဒီကောင်လေး"ဆိုပြီး ဆံရစ်ဝိုင်းကလေးနှင့်ရှိသော မောင်ဒွေးလွင်၏ ဆံထုံးကလေးကို လက်နှင့်အုပ်ကိုင်၍ အထက်သို့ ဆွဲမြှောက်ပင့်တတ်သည်ဟူ၏၊ ထိုအချိန်က သိမီလိုက်သောပုဂ္ဂိုလ်တို့က တစ်ဆင့်ပြောပြ၍ သိရပါသည်။

မောင်ဒွေးလွင်ကား ထိုအရွယ်ကပင် ဆရာ၏ အနွံအတာကို ခံယူတတ်သောစိတ်ဓာတ် ကိန်းဝပ်လျက် ရှိလေသည်။



အလွန်တိကျသော အတိမ်းအစောင်းမခံသော
မြောင်းမြဆရာတော်

## ရိုသေတတ်သော ရှင်ဇနက

ဆရာတော် အရှင်ဇနကာဘိဝံသက စာချရင်း အကြောင်းစပ်လာလျှင် သူ၏ နေထိုင်ကျင့်သုံးခဲ့ပုံတို့ကို တပည့်များအား ပြောပြတတ်၏။ "တချို့က ငါ့ကို ပြောကြတယ်ကွ၊ ဦးဇနကဟာ သိပ်ဘုန်းကြီးတာပဲ, အလုပ်တွေကလဲ သိပ်အောင်မြင်တာပဲ, သိပ်ကြီးပွားနေတယ်တဲ့၊ ဒါက အများအမြင်ပဲ၊ ခုမှမြင်ကြတာ၊ ဒီလို အောင်မြင်ကြီးပွားအောင် ဘယ်လိုကျင့်သုံးခဲ့တယ်ဆိုတာ သူတို့ မသိကြဘူး၊ ဘယ်လိုကြိုးစားခဲ့ရတယ်ဆိုတာကိုလဲ သူတို့ မသိဘူး၊ ငါ့မှာက ငယ်ငယ်ကတည်းက ကြိုးစားခဲ့ရပါတယ်၊ လုံ့လဝီရိယ သန်ခဲ့ရပါတယ်၊ ဆရာသမားတွေရဲ့ ညွှန်ပြချက်နှင့် စည်းစနစ်ရှိခဲ့ရပါတယ်၊ ဆရာသမားတွေကိုလဲ အထူးရိုသေခဲ့ပါတယ်၊ ဆရာသမားများရဲ့ စကားဆိုလျှင် မြေဝယ်မကျ နားထောင်ခဲ့ရပါတယ်။

ဆရာသမားကို ရိုသေတဲ့နေရာမှာ တစ်ခါတုန်းက မြောင်းမြဆရာတော်လောင်းရဲ့ ဖိနပ်ကို ရုတ်တရက်မို့ ငါကျော်မိတယ်၊ ငါ့မှာ ဒိန်းခနဲ အသံကြီးမြည်သွားသလိုပဲ၊ ခေါင်းနားပန်းတွေ ကြီးသွားတယ်၊ ငါ့မှာ အပြစ်တွေ ရှိသွားပြီလို့လဲ အောက်မေ့လိုက်တယ်၊ ဒီတွင် ချက်ချင်း ထိုင်ပြီး ငါက ဖိနပ်ကြီးကို ကုန်းပြီး ဦးချလိုက်တယ်၊ ငါက အဲလို၊ မင်းတို့တစ်တွေက ကြီးပွားတာသာ မြင်တာ, ကြီးပွားသာ ကြီးပွားချင်ကြတာ, ငါ့လို မလိုက်နာချင်ကြဘူး၊ တစ်ခါတစ်ခါ ဆရာသမားများရဲ့ အိပ်ရာနေရာကို သန့်ရှင်းဖို့ လုပ်တဲ့အခါ အိပ်ရာခုတင်ပေါ် တက်ဖို့ ကြုံလာတယ်၊ ငါက အဲဒီအခါမှာ ဒူးထောက်တက်တယ်၊ ဆရာသမားရဲ့ အိပ်ရာခုတင်ပေါ်ကို ခြေဖဝါးနဲ့ မတက်ခဲ့ဘူး၊ အဲလို… ငါက ဆရာသမားအပေါ် မှာဆိုရင် လေးစားခဲ့တာ၊ ဒီတော့ ငါ့မှာ မကြီးပွားဘဲ နေတော့မလား၊ ဘယ်နေမလဲ၊ ကြီးပွားတော့တာပေါ့"ဟု ပြန်လည်မိန့်ကြားတတ်ပါသည်။

## တိုင်းပြည်အတွက် စာရိတ္တပြုပြင်ဖို့ရာ ဗုဒ္ဓဘာသာသင်ခန်းစာများ

### သင်ကြားမှုမရခဲ့လျှင်

အိမ်ထောင်စုတစ်ခုတွင် စီးပွားရေးမပြေလည်၍သော်လည်းကောင်း, ကျန်းမာရေးချို့တဲ့၍သော်လည်းကောင်း, အခြားအကြောင်းများကြောင့်သော်လည်းကောင်း သားသမီးများကို ငယ်စဉ်က ကျောင်းမထားနိုင်ခဲ့လျှင် ထိုသားသမီးများ အရွယ်ရောက်သောအခါ အဆင့်အတန်းမီအောင် မတွေးခေါ်တတ်ခြင်း, နဂိုက ရှိလာခဲ့သော အစွမ်းအစများပင်ပေါ် မလာနိုင်ခြင်း, ရဲစွမ်းသတ္တိ မရှိခြင်း, အလုပ်မလုပ်တတ်ခြင်း, မလုပ်ရဲခြင်း, နုံတုံတုံဖြစ်ခြင်း, နေရာတကာ ချောချောပြေပြေ မရှိခြင်း, ဘုဆတ်ဆတ် ဖြစ်တတ်ခြင်း, အရာရာတွင် ယဉ်ကျေးမှုနည်းပါးခြင်းစသော မကောင်းကျိုးတို့ကို သားသမီးများ ရရှိတတ်၍ မိဘများ စိတ်ဆင်းရဲကြရတတ်သည်။

ထို့အတူပင် မြန်မာပြည်သည်လည်း ဒုတိယကမ္ဘာစစ်ကြီးနှင့်မလွဲမရှောင်သာကြုံတွေ့ကြရသဖြင့် ကသီကရီ ဖြစ်ကြရ၏၊ စစ်အတွင်းက စစ်နှင့်ရင်ဆိုင်ကြရသော ပုဂ္ဂိုလ်များမှာ စာရိတ္တများ ပျက်ပြားကြရ၏၊ စစ်အတွင်းက လူဖြစ်လာရသော ကလေးသူငယ်များသည်လည်း စာသင်ကျောင်းနှင့် ဝေးခဲ့ရတော့၏၊ စစ်ပြီးသောအခါ ထိုကလေးသူငယ်များမှာ ဆိုခဲ့ပြီးသော အပြစ်တို့ကို ရရှိနေတော့၏၊ နိုင်ငံတော်အစိုးရသည် မိဘသဖွယ်ဖြစ်၏၊ ထို့ကြောင့် နှစ်ကြိမ်တိုင် ပြာပုံဖြစ်ခဲ့ရသော မြန်မာပြည်ကိုလည်းကောင်း, စစ်အတွင်း ယိုယွင်းခဲ့ရသော ပြည်သူ ပြည်သားအပေါင်း၏ စိတ်ဓာတ်များ, စာရိတ္တများကိုလည်းကောင်း ပုံမှန် အနေအထားသို့ ရောက်အောင် ပြန်လည်ထူထောင်ရေးတွေ လုပ်နေရတော့သည်။

## သာသနာဖြင့် အထွတ်တင်ပြုပြင်ခြင်း

အပြင်ပိုင်းရုပ်ဝတ္ထုများ ပျက်ပြားသည်ကို ပြုပြင်ရာမှာ လွယ်ကူသလောက် အတွင်းပိုင်း နာမ်ဝတ္ထု (ကိုယ်ကျင့်စာရိတ္တများ, စိတ်ဓာတ်များ) ပျက်ပြားသည်ကို ပြုပြင်ဖို့ရာ လွယ်ကူလှမည်မဟုတ်ချေ၊ တာဝန်ရှိသောနိုင်ငံတော်အစိုးရသည် နည်းအမျိုးမျိုးဖြင့် တိုင်ပင်ကြရ၏၊ ဆွေးနွေးကြရ၏၊ နှီးနှောကြရ၏၊ နောက်ဆုံးတွင် စာသင်ကျောင်းများ၌ ဗုဒ္ဓဘာသာ သင်ခန်းစာများ သင်ကြားပြဋ္ဌာန်းပေးဖို့ပင် အဖြေပေါ်တော့သည်၊ ဤအခြေအနေကို ဗိုလ်ချုပ်အောင်ဆန်းကလည်း မျှော်မှန်း သိမြင်ခဲ့၏၊ လွတ်လပ်ရေးမရမီ ရန်ကုန်မြို့တော်ခန်းမ လူထုအစည်းအဝေးပွဲကြီးတုန်းက ဤသဘောမျိုးသက်ဝင်သည့် စကားတို့ကို ပြောကြားခဲ့သည်။

"ကျွန်တော်တို့ လွတ်လပ်ရေးရလျှင် တိုင်းပြည်အတွင်းမှာ ယိုယွင်းခဲ့တဲ့ အဆောက်အအုံများ, လမ်းများ, တံတားများ, တာတမံများ စတဲ့အရာတွေ ပြန်လည်ပြုပြင်ဖို့ကတော့ လွယ်ကူမှာပါပဲ၊ အဲ-ခက်ခဲမှာက လူငယ် လူကြီး တိုင်းသူ ပြည်သားတို့ရဲ့ စိတ်ဓာတ်တွေ, စာရိတ္တပျက်ယွင်းခဲ့တာတွေ ပြန်ပြင်ဖို့, ပြီးတော့ ကိုယ့်အားကိုယ်ကိုးစိတ်ဓာတ်တွေ ဖြစ်ထွန်းကိန်းအောင်း လာဖို့ အဲဒါတွေက နည်းနည်းခက်မယ်ထင်တယ်"။

ဤသို့ ခက်မည်ထင်သော ကိစ္စတို့အတွက် နည်းလမ်းရှာ၍ ဗုဒ္ဓဘာသာ သင်ခန်းစာတို့ကို သင်ကြားရန် စီမံဆုံးဖြတ်သည့်အဆင့်သို့ ရောက်လာရ၏။

သို့အတွက် လူပညာရှိ ရဟန်းပညာရှိတို့ကို ပင့်ဖိတ်၍ တာဝန်အသီးသီး အပ်နှံရတော့သည်၊ ထိုတာဝန်ထမ်းရန် အပ်နှံခြင်းခံရသောပုဂ္ဂိုလ်များတွင် ဆရာတော် အရှင်ဇနကာဘိဝံသလည်း တစ်ပါးအပါအဝင်ဖြစ်၏။

မှန်ပါသည်၊ မြန်မာပြည်ကို ပုဂံခေတ်မှစ၍ ရှင်အရဟံနှင့် အနော်ရထာမင်းတို့ ခေါင်းဆောင်ပြီး ဗုဒ္ဓဘာသာမှရသော ယဉ်ကျေးမှုတို့ဖြင့် အထွတ်တင် ပြုပြင်လာခဲ့ရာ သာယာချမ်းမြေ့သောနိုင်ငံကြီးဖြစ်လာခဲ့ပါသည်၊ ဤနည်းဖြင့် မြန်မာပြည်မြေပေါ်၌ ဗုဒ္ဓဘာသာအပင်ကြီးပေါက်၍ အမြစ်အညှောက်တို့ဖြင့် ခိုင်မြဲစွာ ကုပ်တွယ်လျက် ကြီးထွားစည်ကားလာခဲ့ရာ နှစ်ပေါင်းကိုးရာကျော်ပင် ကြာလာခဲ့ပြီမဟုတ်ပါလော။

## အခြားအပင်နှင့်မလျော်

ထို့ကြောင့် ဤ မြန်မာပြည်မြေကြီးသည် ဗုဒ္ဓဘာသာအပင်နှင့်သာလျှင် ဆီလျော်သင့်မြတ်၏၊ မြေကြီးအခံဓာတ်နှင့် ဟပ်၏၊ အခြားအပင်မျိုး စိုက်ပျိုးသော်လည်း မြေကြီးနှင့်ဓာတ်မတည့်၍ ကြီးထွားစည်ကားဖို့ မဖြစ်နိုင်ပေ၊ ဤသို့ပင် သိမြင်ခဲ့သောနိုင်ငံတော်အစိုးရသည် ပြန်လည် ထူထောင်ရေးအတွက် ဗုဒ္ဓဘာသာအပင်ကိုပင် ပြန်လည် ရှင်အောင် အညွန့်တလူလူ ဝေအောင် ရေးလောင်းဖို့စီမံကိန်းချကြ၏၊ ထို့ကြောင့် ဗုဒ္ဓဘာသာသင်ခန်းစာများ ရေးသားရေးအဖွဲ့ကို ရဟန်းတော်များဘက်မှ (၁) နောင်အခါ ဆဋ္ဌသင်္ဂါယနာခေါင်းဆောင် အဘိဓဇမဟာရဋ္ဌဂုရု ဖြစ်တော်မူလာမည့် အဂ္ဂမဟာပဏ္ဍိတ ညောင်ရမ်းဆရာတော်ကြီး၊ (၂) ရန်ကုန်မြို့ ဗဟန်းကျောင်းတော်ရာတိုက်မှ မန်းဦးဆရာတော်၊ (၃) ရန်ကုန်မြို့ ခြောက်ထပ်ကြီးဘုရားတိုက်ဆရာတော် ဦးကောဏ္ဍညနှင့် (၄) အရှင်ဇနကာဘိဝံသဆရာတော်ဟူ၍ ကော်မတီတစ်ခုဖွဲ့ကြပါသည်။

လူများဘက်မှလည်း သတိုးသီရိသုဓမ္မ တရားဝန်ကြီးချုပ် ဦးသိမ်းမောင်, ပထမကျော် ဦးတင်ရွှေစသော ပုဂ္ဂိုလ်များ ပါဝင်ကြသည်။

## လေးတန်းအထိ တာဝန်ပေး

ဗုဒ္ဓဘာသာလက်စွဲအမည်ဖြင့် သင်ခန်းစာများကို မူလတန်း၊ အလယ်တန်း၊ အထက်တန်း သုံးပိုင်းခွဲခြားလိုက်ကြ၏၊ ပြီးလျှင် "ဆရာတော်အရှင်ဇနကာဘိဝံသက ကလေးသူငယ်များ နားလည်အောင် စွမ်းဆောင်နိုင်ပါသည်၊ သို့အတွက် အရှင်ဘုရားက သူငယ်တန်းမှစ၍ ပထမတန်း၊ ဒုတိယတန်း၊ တတိယတန်း၊ စတုတ္ထတန်းအထိ ရေးသားပေးတော်မူပါ"ဟု တာဝန်ပေးအပ်ခြင်းကို ခံယူတော်မူရသည်။

အလယ်တန်းဖြစ်သော ငါးတန်း၊ ခြောက်တန်း၊ ခုနစ်တန်းအတွက် ဗုဒ္ဓဘာသာလက်စွဲကို ကော်မတီတွင် ပါဝင်သော ပထမကျော်ဦးတင်ရွှေ (ယခင် ပထမကျော်ဦးတေဇဝန္တ)က ရေးသားရ၏၊ မန်းဦးဆရာတော်က အဋ္ဌမတန်းနှင့်နဝမတန်းများအတွက် ရေးသားတော်မူရ၏၊ ထိုအခါ ဆရာတော် အရှင်ဇနကာဘိဝံသမှာ အလွန်ကျေနပ်ခဲ့ရ၏၊ ကြည်နူးမှုလည်း များစွာဖြစ်ရသည်၊ အဘယ့်ကြောင့်ဆိုသော် ဆရာတော်သည် ပြုပြင်ရေးလုပ်ရာတွင် ငယ်ရွယ်သူများကို အထူးလိုလားတော်မူသောကြောင့် ဖြစ်ပေသည်၊ ထို့ကြောင့်ပင် ဆရာတော်၏ကျောင်းတိုက်၌ ရဟန်းတော်ကြီးကြီးမားမားကို လက်မခံဘဲ ရဟန်းငယ်များနှင့် သာမဏေရွယ်ရွယ်များ၊ ဖိုးသူတော်ကလေးများကိုသာ လက်ခံ၍ ပြုပြုတော်မူနေသည်။

**ကလေးများအတွက် သင်ခန်းစာ**

ယခုအခါ မြန်မာတစ်နိုင်ငံလုံးမှ သားငယ် သမီးငယ် ကလေးသူငယ်တို့အတွက် မိမိရင်သွေးကလေးများပမာ မျက်စိထဲ မြင်ယောင်လာပြီးလျှင် ဆရာတော်က စိတ်ကူးယဉ်ယဉ်ဖြင့် သင်ခန်းစာများ ရေးနေလေပြီ၊ ကလေးတို့နှင့်လိုက်သော (ကလေးတို့ နားလည်နိုင်သော)စကားလုံးကလေးများကို သုံးကာ သုံးကာ ရေးသားနေလေပြီ၊ ကလေးတို့အတွက် စာအုပ်ဖြစ်၍ ကလေးတို့နှင့်လည်း ရင်းနှီးစွာ ဆရာတော်က ဆီးကြိုနှုတ်ဆက်လိုက်သေး၏၊ ထို့ကြောင့် ကလေးတို့ကလည်း ဆရာတော့်အား လေးစားခင်မင်ချစ်ခင်ကြည်ညိုကြလေသည်၊ ဆရာတော်နှုတ်ဆက်ပုံမှာ စာအုပ်ကလေးများ၏ အစမျက်နှာ၌...

"အလိမ္မာ စာမှာ ရှိတယ်၊
အို...ကလေးများရယ်၊
နားဆောင်ကြပါကွယ်၊
ဘုန်းဘုရား ပြောပြမယ်"...တဲ့။

## ညာဏ်ပူဇော်ခ မယူပါရစေနှင့်

ကိုယ်စီကိုယ်င သင်ခန်းစာများ ရေးသား၍ ဆိုင်ရာသို့ အပ်နှင်းပြီးသောအခါ နိုင်ငံတော်အစိုးရ ပညာရေးဝန်ကြီးဌာနက ညာဏ်ပူဇော်ခအနေဖြင့် တစ်ပါးလျှင်(၁၅၀၀)ကျပ်စီလှူဒါန်းဖို့ရန် စီမံဆုံးဖြတ်ကြလေသည်၊ ထိုအစီအစဉ်အတိုင်း အခမ်းအနားဖြင့် လေးစားစွာ လှူဒါန်းဆက်ကပ်ရန် လက်ခံတော်မူရန်အတွက် သင်ခန်းစာရေးသားသောပုဂ္ဂိုလ်တို့ကို ပင့်ဖိတ်သောအခါ ဆရာတော်အရှင်ဇနကာဘိဝံသက ညာဏ်ပူဇော်ခကို လက်မခံခဲ့ပေ၊ အထက်တန်းအတွက် ရေးသားပေးသော မန်းဦးဆရာတော်ကလည်း ထိုနည်းအတူပင် လက်မခံဟူ၍ သိရသည်၊ (လူဘက်မှ ပါဝင်သော ဦးတင်ရွှေကား သူ့အကြောင်းနှင့်သူဖြစ်၍ လက်ခံပါ၏၊) ထို့ပြင် အရှင်ဇနကာဘိဝံသ ဆရာတော်က မိမိ၏ ဆန္ဒ၊ မိမိ၏ သဘောထားကို ဥက္ကဋ္ဌကြီး ဦးသိမ်းမောင် ထံသို့ အောက်ပါအတိုင်း စာပြန်လိုက်လေသည်။

**ဗုဒ္ဓဘာသာသင်ခန်းစာစီစဉ်ရေးအဖွဲ့**
**အတွင်းရေးမှူးမှ တစ်ဆင့်**

**ဥက္ကဋ္ဌဒါယကာကြီး ဦးသိမ်းမောင် ထံ**

**ကိစ္စ။ ။** အလှူတော်ငွေ ၁၅၀၀ိ (တစ်ထောင့်ငါးရာ) နှင့်စပ်၍ ဘုန်းကြီး၏ဆန္ဒသဘောထားကို ပြန်ကြားခြင်း။

၁။ ပြန်ကြားသိစေအပ်ပါသည်၊ ဥက္ကဋ္ဌဒကာကြီး၊ နိုင်ငံတော်အစိုးရ၏ပညာရေးဝန်ကြီးက "ဗုဒ္ဓဘာသာသင်ခန်းစာ"စီစဉ်ရေးအဖွဲ့မှတစ်ဆင့် ဘုန်းကြီး၏ နဝကမ္မအား ဝတ္ထုငွေ ၁၅၀၀ိ ကို အခမ်းအနားဖြင့် လှူဒါန်းရန် စီစဉ်နေကြောင်းကို ကြားသိရ၍ ပုထုဇဉ် သဘာဝအတိုင်း ဝမ်းမြောက်ပါသည်။

၂။ သို့သော် နိုင်ငံတော်နှင့်သာသနာတော်ကို အမှန်တိုးတက်စေလိုသောဆန္ဒဖြင့် ဘာသာရေးကျမ်းစာများကို ရေးသားခဲ့သော, ရေးသားဆဲလည်းဖြစ်နေသော ဘုန်းကြီး၏အတွက်မှာ ဤကိစ္စနှင့်စပ်၍ သဘာဝကျကျ စဉ်းစားသင့်တယ်လို့ယူဆပါသည်။

၃။ ဘုန်းကြီးသည် တိုင်းသူပြည်သား လူအများ၏ အဖိုးအခမဲ့လှူဒါန်းသော ဆွမ်း,သင်္ကန်း,ကျောင်း, ဆေး ပစ္စည်းလေးပါးကို သုံးစား၍ ကျောင်းသား, သာမဏေ,ရဟန်းဘဝဖြင့် ဆရာသမားများအထံတော်ဝယ် အဖိုးအခ မပေးရဘဲလျှင် ဗုဒ္ဓတရားတော်များကို သင်ယူကာ အထိုက်အလျောက် ရှင်လူအများ လေးစားလောက်အောင် တတ်မြောက်ခဲ့သည်ဟူသော အခြေခံအကြောင်းကို မမေ့သင့်ပါ။

၄။ နိုင်ငံတော်အစိုးရနှင့် တကွ ဥက္ကဋ္ဌဒကာကြီး အမှူးထားသော သင်ခန်းစာစီစဉ်ရေးအဖွဲ့က နိုင်ငံတော် အမျိုးသား အမျိုးသမီးလေးများအတွက် မူလတန်းမှ စတုတ္ထတန်းအထိ ဗုဒ္ဓဘာသာ သင်ခန်းစာကို စီစဉ်ပေးပါရန် တောင်းပန် လွှဲအပ်ခြင်းသည်ပင် ဘုန်းကြီး၏ အရည်အချင်းကို လေးစားကြောင်း ထင်ရှားသော လက္ခဏာတစ်ရပ် ဖြစ်၍ ဘုန်းကြီးက ပထမ ကျေနပ်ခဲ့ပါပြီ။

၅။ ဘုန်းကြီး စီစဉ်ပေးအပ်သော သင်ခန်းစာကို အစိုးရက ကောင်းမွန်စွာ ရိုက်နှိပ်၍ စာသင်ကျောင်းသား ကလေးများအား သင်ကြားဖို့ရန် အခမဲ့ ဝေငှမည်ဟူသော ရည်ရွယ်ချက်ကို သိရသောကြောင့် ဒုတိယတစ်ဖန် ကျေနပ်ရပြန်ပါသည်။

၆။ ထိုကျေနပ်ခြင်းအမျိုးမျိုး ရှိပြီးရုံမျှမက ဘုန်းကြီးသည် "အနာဂတ်သာသနာရေးကျမ်းစာ"၌ ငွေအလှူခံမှု၏အပြစ်ကို နှစ်နှစ်ကာကာ ရေးထားသည့်ပြင် ကျောင်းတိုက်သံဃာများအားလည်း ထိုအပြစ်ကိုပြောပြ၍ ဩဝါဒပေးလေ့ရှိပါသည်။

၇။ နိုင်ငံတော်နှင့်သာသနာတော်ကို သဘာဝကျကျ တိုးတက်စေလိုသော ထိုဆန္ဒကို အကဲခတ်မိပုံရသောကြောင့်ပင် ရန်ကုန်မြို့ Y.M.B.A အသင်းနှင့် မန္တလေးမြို့ သာသနာတော်လုံးဆိုင်ရာ ဗုဒ္ဓဘာသာအသင်းတို့က ယခုအချိန်မှာ ဘုန်းကြီးကို လေးစား အားကိုးလျက် ရှိကြပါသည်။

၈။ ဘုန်းကြီး၏ဒကာဖြစ်ကြသော ထိုအသင်းများသည် "ဗုဒ္ဓဘာသာသင်ခန်းစာကို ရေးပေးသည့်အတွက် လှူအပ်သော နဝကမ္မ (၁၅၀၀) ကို ဘုန်းကြီးလက်ခံသတဲ့"ဟု ကြားရသောအခါများစွာ ရင်ထုမနာ ဖြစ်ရှာကြပါလိမ့်မည်။

၉။ ပြခဲ့သောအကြောင်းများကြောင့် ဘုန်းကြီးအား နဝကမ္မကို လှူဒါန်းဖွယ်မလိုတော့ပါ။ အခမဲ့ သင်ကြား၍ တတ်မြောက်ခဲ့သော အရည်အချင်းဖြင့် အခမဲ့ဝေငှမည့် "ဗုဒ္ဓဘာသာသင်ခန်းစာ"ကို စီစဉ်ရသောကောင်းမှုသည် ဘုန်းကြီးအတွက် မဂ်-ဖိုလ်-နိဗ္ဗာန်ကို အခမဲ့ သိမြင်ရန်နှင့်ဘုန်းကြီး၏ ဩဝါဒခံပုဂ္ဂိုလ်များ ကျေနပ်ရန်သာ ဖြစ်ပါစေတော့။

**ဦးဇနကာဘိဝံသ**
**မဟာဂန္ဓာရုံကျောင်းတိုက်**

## ဗုဒ္ဓဘာသာလက်စွဲစာအုပ်များ

ဆိုခဲ့ပြီးအတိုင်း တာဝန်ပေးချက်အရ တိုင်းပြည်၌ သားကောင်း သမီးကောင်းများ, ရေးခြားလိမ္မာသော ရင်သွေး သားငယ် သမီးငယ်များ ဖြစ်လာဖို့ရာ အတွက် ဆရာတော် အရှင်ဇနကာဘိဝံသသည် လည်း တစ်တပ်တစ်အား ပါဝင်ခဲ့၏။ ဆရာတော်ကား ဤကဲ့သို့သောလုပ်ငန်းမျိုး၌ ပါဝင်၍ သာသနာအတွက်,တိုင်းပြည်အတွက်ဆောင်ရွက်ရမည်ဆိုလျှင် အလွန်နှစ်မြို့က်တော်မူလေ့ရှိသည်၊ ထို့ကြောင့်ပင် ယခုလည်း စိတ်အား တက်ကြွစွာဖြင့် သူငယ်တန်းမှ စ၍ ပထမတန်း, ဒုတိယတန်း, တတိယတန်း, စတုတ္ထတန်းအထိ ငါးအုပ်နှင့် ဆရာကိုင်တစ်အုပ် ပေါင်း ခြောက်အုပ် ရေးသားပေးခဲ့၏၊ "ဗုဒ္ဓဘာသာလက်စွဲ" ဟု ခေါ်တွင်သည်၊ အစိုးရစာသင်ကျောင်းများ၌ သင်ကြားခဲ့ကြရသည်၊ ကလေးတို့၏ နှုတ်ဖျားတွင်

"အလိမ္မာ စာမှာ ရှိတယ်, အို...ကလေးများရယ်"ဟု ကျူးရင့်သံကို ကြားရလျှင် ဆရာတော် အရှင်ဇနကာဘိဝံသလည်း တစ်အားတက်၍ ကြည်နူးနေပါလိမ့်မည်၊ နှလုံးပီတိ ဝွမ်းဆီထိမျှ တအိအိကျေနပ်၍ ဝမ်းမြောက်တော်မူနေလိမ့်မည်ဟု ထင်ရပါသည်။

သို့သော် ကျောင်းသူ ကျောင်းသားကြီးများအတွက် အခွင့်အရေးတစ်ခုလွတ်ခဲ့၏၊ ထိုစဉ်တုန်းက စည်းဝေးကြသောအခါ"တက္ကသိုလ်တန်းများအတွက် အဘိဓမ္မာဘာသာမှာ ဆရာတော် အရှင်ဇနကာဘိဝံသ ရေးသားသော အခြေပြုသင်္ဂြိုဟ်ကို ပြဋ္ဌာန်းမည်"ဟု ဆုံးဖြတ်ကြသည်၊ ထိုအခါ ဆရာတော်က "အခြေပြုသင်္ဂြိုဟ်ဟာ ပါဠိတွေ ပါနေသည့်အတွက် ကျောင်းသူ ကျောင်းသားများနှင့် မသင့်လျော်ပါ၊ ရှင်ငယ် ရဟန်းငယ်များနှင့်သာ သင့်လျော်ပါသည်၊ အကယ်၍ အဘိဓမ္မာဘာသာအတွက် ပြဋ္ဌာန်းလိုပါလျှင် မဂ်လသုတ်ကို အခြေခံထားပြီး အဘိဓမ္မာသဘောများဖြင့် တန်ဆာဆင်ကာ အသစ်ရေးသားပေးပါမည်" ဟု အမိန့်ရှိခဲ့ဖူး၏၊ သို့သော်လည်း အသစ် ရေးသားပေးသည့်တိုင်အောင် မဆိုင်းနိုင်ကြဘဲ အခြေပြုသင်္ဂြိုဟ်ကိုပင် ပြဋ္ဌာန်းခဲ့ကြသဖြင့် ဆရာတော်လည်း ကျောင်းသူ ကျောင်းသားများနှင့် လိုက်လျောမည့် အဘိဓမ္မာကို မရေးဖြစ်ခဲ့တော့ပေ၊ နောက်တွင်လည်း အခြားကျမ်းစာတို့ကို ရေးသားနေရသဖြင့် အလှည့်မရသလို ဖြစ်သွားတော့သည်၊ ဤနည်းဖြင့် တက္ကသိုလ်ကျောင်းသားများအတွက် အခွင့်အရေးတစ်ခု လက်လွတ်ခဲ့ရတော့သည်။

## ဝိုင်.အမ်.ဘီ.အေအတွက် ဗုဒ္ဓဘာသာသင်ခန်းစာများ

### အခြေခံကျောင်းများအတွက်

မြန်မာနိုင်ငံ လွတ်လပ်ရေး ရပြီးစ ပြန်လည်ထူထောင်ရေးကာလက တိုင်းပြည်၌ စာရိတ္တဘက်တွင် ယိမ်းယိုင်နေသည်တို့ကို ပြုပြင်နိုင်ဖို့ရာ... "စာသင်ကျောင်းတို့၌ ဗုဒ္ဓဘာသာသင်ခန်းစာများ သင်ကြားကြရမည်"ဟု နိုင်ငံတော်အစိုးရက မူချခဲ့၏၊ ထိုမူအရ သင်ကြားရမည့် သင်ခန်းစာများ စာအုပ်စာတန်းများလိုလာသည်၊ ယင်းအတွက် (မြန်မာပြည်အထက်ပိုင်းမှ ၂ ပါး, အောက်ပိုင်းမှ ၂ ပါး) ဆရာတော်ကြီး ၄ ပါးကို "ဩဝါဒါစရိယများ"အဖြစ် တင်မြှောက်၍ "သင်ခန်းစာများရေးဆွဲရေးအဖွဲ့" ဖွဲ့ခဲ့ကြ၏၊ ထိုအဖွဲ့တွင် ဆရာတော် အရှင်ဇနကာဘိဝံသက ဩဝါဒါစရိယအဖြစ် ပါဝင်ရသည့်အပြင် သင်ခန်းစာ ရေးသားရေး တာဝန်ကိုလည်း ယူခဲ့ရသည်။

ထိုတာဝန်အရ မူလတန်းများအတွက် သူငယ်တန်း, ပထမတန်း, ဒုတိယတန်း, တတိယတန်း, စတုတ္ထတန်းအထိ ရေးသားချီးမြှင့်ပေးခဲ့ရဖူးသည်၊ အခြားတန်းများအတွက် အခြားပုဂ္ဂိုလ်များ ရေးသားခဲ့ကြ၏၊ ဤအကြောင်းအရာများ ဖော်ပြပြီးခဲ့ပြီ။

ယခုတစ်ဖန် ၁၃၂၅-ခု (၁၉၆၃-ခု) နှစ်တွင် ရန်ကုန်မြို့မှ ဆရာတော်၏တပည့်, ဆရာတော်နှင့် အလွန်ရင်းနှီး၍ ဘာသာရေး သာသနာရေး၌ အထူးစိတ်ဝင်စားသောဒါယကာထိန်ဝင်းကလည်းကောင်း, ဝိုင်. အမ်. ဘီ. အေအသင်းကြီး၏ဒါယကာများကလည်းကောင်း, ရန်ကုန်မြို့ မြို့မကျောင်းကြီး၏ တာဝန်ခံ အချို့ ဒါယကာများကလည်းကောင်း အကြောင်းကြောင်းကို ထောက်ပြ၍ ဗုဒ္ဓဘာသာ အခြေခံ သင်ခန်းစာများ ရေးသားပေးပါရန် တောင်းပန်လျှောက်ထားလာကြပြန်သည်၊ ဝိုင်-အမ်-ဘီ-အေအသင်းအနေဖြင့် ဖွင့်လှစ်မည့်"ဗုဒ္ဓဘာသာ အခြေခံသင်တန်းကျောင်းများ"တွင် သင်ကြား ပို့ချရန် အတွက်ဟုလည်း လျှောက်ထားကြ၏။

## ဗုဒ္ဓဘာသာသင်ခန်းစာများ

ထို့ကြောင့် ရဟန်း သံဃာတော်များအတွက် တစ်ဖက်တွင် နေ့စဉ်မှန်မှန် ချပို့ရေးသားနေရသော ကျမ်းစာကြီးများ၏ကြားမှ အချိန်ကို တတ်နိုင်သမျှ လု၍ ဖဲ့၍ ပေးပြီးလျှင် တိုင်းပြည်၏ ရင်သွေးကလေးတို့အတွက် "ဗုဒ္ဓဘာသာသင်ခန်းစာများ"ရေးသားပေးခဲ့ရပြန်လေသည်။

ဤအကြိမ်တွင်ကား အောက်ဆုံးသူငယ်တန်းမှ စ၍ နဝမတန်းအထိ ဆရာတော် တစ်ပါးတည်း ရေးသားခဲ့သည်၊ တစ်ပါးတည်းဖြစ်၍လည်း အစီအစဉ်ကို ဆရာတော်၏စိတ်ကြိုက် စီစဉ်ထား၏၊ ယခင်ကရေးသားခဲ့ကြသော "ဗုဒ္ဓဘာသာလက်စွဲ" များ အစီအစဉ်နှင့် မတူချေ။

ယခုစီစဉ်ပုံမှာ အောက်ဆုံးအဆင့်မှစ၍ တရွေ့ရွေ့ တဖြည်းဖြည်း မြင့်တက်သွားအောင် စီစဉ်ပုံ၊ တဖြည်းဖြည်းလေးနက်လာအောင် အသိဉာဏ် ကျယ်ပြန့်လာအောင် စီစဉ်ပုံမှာ စိတ်ဝင်စားစရာပင် ကောင်းလှတော့သည်။

အတန်းတိုင်းတွင် ဆရာများအတွက် သင်ကြားရန် ညွှန်ကြားချက်များပါ ဖော်ပြထား၏၊ အခြေခံ အောက်ဆုံးဆင့် (သူငယ်တန်း)မှ စာမဖတ်တတ်သေးသောအရွယ် ကလေးသူငယ်များသာ ဖြစ်၍ သူတို့အတွက် ရုပ်ပုံများဖြင့်သာ သင်ကြားရန် ဖြစ်သည်၊ ရုပ်ပုံများကို ဆရာက လက်ဖြင့်ထောက်ပြ၍ ကလေးများ စိတ်ဝင်စားအောင် ပုံပြောသလိုပြောရန် ညွှန်ကြားထားသည်။

ထို့နောက်တစ်ဖန် ပထမတန်းတွင်လည်း စာမဖတ်နိုင်သေးသဖြင့် ရုပ်ပုံများဖြင့်ပင် တစ်ဆင့်တက်၍ သင်ကြားပေးရန်, အချို့စာကို ဆရာက နှုတ်တိုက်ချပေးရန် ညွှန်ကြားထားသည်၊ ဒုတိယတန်းတွင်ကား နည်းနည်းပါးပါး ဖတ်တတ်စ ပြုလာပြီ၊ တတိယတန်းတွင်ကား အတော်ဖတ်တတ်လာပြီဖြစ်၍ ဂုဏ်တော်အနက်များကို ဖတ်နေပြီ၊ စတုတ္ထတန်းတွင်ကား အတော်ကျယ်ကျယ်ပြန့်ပြန့် သိတတ်လာပြီဖြစ်၍ မင်္ဂလာတရားတော်များကိုပါ လေ့လာနေရပြီ။

ဤသို့လျှင် မူလတန်းများကို စီစဉ်ပြီးသောအခါ အလယ်တန်းများအတွက် ပဉ္စမတန်း, ဆဋ္ဌမတန်း, သတ္တမတန်းတို့ကို ဆက်လက် စီစဉ်တော်မူ၏၊ ထို့နောက် အထက်တန်းများအတွက် အဋ္ဌမတန်း, နဝမတန်းတို့ကို စီစဉ်တော်မူခဲ့သည်၊ ဤအတန်းအားလုံးအတွက် သင်ကြားရမည့်စာများကို "ဗုဒ္ဓဘာသာသင်ခန်းစာများ"ဟု အမည်ပေးတော်မူခဲ့၏၊ ယခုအခါ အတန်းအားလုံးကိုစုပေါင်း၍ စာတစ်အုပ်တည်းဖြင့် ရိုက်နှိပ်ထားပြီး ရှိနေလေပြီ။

## စိတ်ဝင်စားဖွယ်အစီအစဉ်များ

ထိုတွင် ... ပဉ္စမတန်းသို့ ရောက်လာသူသည် အတော်ပင် ဆင်ခြင်စဉ်းစားဉာဏ် ပွင့်လာပြီဖြစ်၍ ယင်းတို့နှင့် ထိုက်တန်အောင် သိဖွယ်အကြောင်းအရာတို့ကိုလည်း မြှင့်တင်စီစဉ်ထားသည်ကို တွေ့ရမည် ဖြစ်၏၊ ဗုဒ္ဓရတနာအကြောင်း, သဗ္ဗညုတဉာဏ်တော်ကြီးအကြောင်း စသည်တို့ကို ဖော်ပြထားသည်၊ ဆဋ္ဌမတန်းတွင်လည်း ဓမ္မရတနာအကြောင်း, သမ္ဗုဒ္ဓါတရားများ, သိင်္ဂါလောဝါဒသုတ်စသည်တို့ကို ဖော်ပြပြီးနောက် အတုမဲ့ ဓမ္မရတနာအဖြစ် နိဗ္ဗာန်အကြောင်းကို ဖော်ပြထား၏။

နိဗ္ဗာန်ကို ဖော်ပြရာ တွင် "ခယံ ဝိရာဂံ အမတံ ပဏီတံ" စသော ဂါထာဖြင့် ရှင်းလင်း ပြထားရာ အလွန် ခက်ခဲသော အကြောင်းအရာသည်ပင် ပေါ်လွင်လွယ်ကူစွာ သိမှတ်ကြရတော့သည်။

သတ္တမတန်း၌ကား သံဃာ့ရတနာကို အကျယ်ပြပြီးလျှင် တစ်ရွာ တစ်ကျောင်း ဘုန်းကြီးကျောင်းရှိဖို့အရေး, ကလေးများအတွက် ပညာသင်ကြားရာကျောင်းရရှိရေး, အရည်အချင်းရှိသော ဘုန်းတော်ကြီး ရရှိရေး, ဘုန်းတော်ကြီး၏နေ့စဉ်လုပ်ငန်းနှင့် ကျင့်ဝတ်, ကျေးရွာ ကျန်းမာရေး, ဆေးပေးခန်း, ဆရာ ဆရာမများ ရရှိရေး, ကျေးရွာ စာကြည့်ခန်း တည်ထားသင့် စသည်ဖြင့် ညွှန်ပြထားရာ အလွန် စိတ်ဝင်စားဖွယ် အားရ ကျေနပ်ဖွယ် ကောင်းလှတော့သည်။

အဋ္ဌမတန်း၌ ဗုဒ္ဓ၊ ဓမ္မ၊ သံဃာ ရတနာတို့၏ အကြောင်းကို အကျယ်ထပ်မံ ပြပြီးလျှင် မိစ္ဆာဒိဋ္ဌိ၏ အယူမှား(၁၀)မျိုးအကြောင်း၊ သမ္မာဒိဋ္ဌိအကြောင်း၊ ခန္ဓာငါးပါး၏ သဘော၊ ရုပ်နာမ် အခွဲ၊ ကံ၏ သတ္တိလိုက်ပုံအကြောင်း၊ စက်လေးပါးအကြောင်းစသည်ဖြင့် တစ်တန်းထက်တစ်တန်း ပို၍ ကျယ်ပြန့်စွာ စီစဉ်ထားသဖြင့် ပို၍ သိချင်စရာကောင်းလာသည်၊ ဆရာတော်၏ စီစဉ်ပုံကား သင်တန်းခန်းမ၌ စာသင်နေရသည်နှင့် မတူဘဲ ကွင်းထဲဆင်း၍ လက်တွေ့ လုပ်ငန်းခွင် ဝင်နေရဘိသို့ ဖြစ်တော့သည်။

နဝမတန်း၌ကား "သူငါမဟုတ်၊ နာမ်နှင့်ရုပ်" စသောခေါင်းစီးတို့ဖြင့် အလွန်လေးနက်သော ရုပ်နာမ်ဓမ္မ သဘာဝတို့၏ အကြောင်းအရာတို့ကို ဖော်ပြ ရေးသားလာ၏၊ သို့ရာတွင် နဝမတန်းအတွက် ရေး၍ များစွာ မပြီးလိုက်ပါ၊ အစပိုင်းမျှသာ ရေးပြီးလျှင် ရပ်သွားပါတော့သည်။

## အခြေခံသင်တန်းစတင်ဖွင့်လှစ်ပွဲ

ဤကဲ့သို့ အတန်းစာများကို ရေးသားချီးမြှင့်၍ လက်ခံ ရရှိပြီးလျှင် လက်တွေ့ အကောင်အထည် ဖော်ရန် လုပ်ငန်း စကြတော့၏၊ ၁၃၂၅ ခု (၁၉၆၃ ခု) ကဆုန်လပြည့်နေ့က ဖြစ်သည်၊ ရန်ကုန်မြို့ မြို့မ အမျိုးသမီးအထက်တန်းကျောင်းတွင် "ဗုဒ္ဓဘာသာ အခြေခံသင်တန်း"ဖွင့်ပွဲကို စတင်ပြုလုပ်ကြသည်၊ ထိုပွဲသို့ အမရပူရ မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသ ကိုယ်တော်တိုင်ကြွရောက်ပြီး သုံးရက်တိုင်တိုင် ကံတရားအကြောင်းကို ဟောပြော၍ ဖွင့်လှစ်ပေးခဲ့သည်၊ ထို့နောက် မြို့မအမျိုးသားအထက်တန်းကျောင်းတွင်လည်း အရွယ်ကြီးသူများအတွက် သင်တန်းဖွင့်၍ ပို့ချပေးခဲ့ကြသည်။

ဆရာတော်၏ သင်ခန်းစာတို့ကား လန်းဆန်းလှ၏၊ ပေါ်လွင်လှ၏၊ ခက်ခဲသောအကြောင်းအရာတို့သည်ပင် လွယ်သလို ထင်နေရသည်၊ တစ်ဆင့်ပြီးမှ တစ်ဆင့်၊ တစ်တန်းပြီးမှတစ်တန်း သင်ကြားလျှင် ပို၍ပင် လွယ်ကူအောင် စီစဉ်ထားတော်မူ၏၊ ဆရာတော်၏ အရေးအသားတို့ကား အတန်းထဲ၌ သင်ကြားနေရသော်လည်း စာသင်နေသည်ဟု မထင်ရဘဲ လက်တွေ့ လုပ်ငန်းခွင်သို့ဝင်၍ လက်တွေ့ အလုပ်လုပ်ကာ လက်တွေ့ကျင့်သုံးနေရသည်ဟုပင် ထင်ရတော့သည်။

ဆရာတော်၏ ရည်ရွယ်ချက်ကား "စာသင်နေသော သူငယ်များအတွက်သာမက အသက်အရွယ် ရပြီးသော လူကြီးများအတွက်ပါ လေ့လာနိုင်ဖို့ ရည်မှန်းပြီး ရေးသည်"ဟု ဆိုထားသည်၊ ဆိုထားသလောက်ပင် အစီအစဉ်အတိုင်း လေ့လာပါက လုံလောက်သော ဗုဒ္ဓသာဝက ပီပီသသ ဖြစ်လာနိုင်မည်ကို သင်ခန်းစာများကို ကြည့်ရှုရမှ ပို၍ပင် ယုံကြည်စရာ ဖြစ်ရတော့သည်။

# အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် ခံယူရရှိတော်မူခြင်း

## ဓွဲလုံ့လအရင်းအနှီးပြုခဲ့၍

ဆရာတော် အရှင်ဇနကာဘိဝံသ၏ ဝါဒမှာ... "လူ့ဘဝနေလျှင် လူ့အလုပ် လုပ်ရမယ်၊ ရဟန်းဘဝ နေလျှင် ရဟန်းအလုပ် လုပ်ရမယ်၊ ဘယ်ဘဝမှာပဲ နေနေ အလကားတော့ မနေရဘူး၊ အလုပ်လုပ်နေရမှာပဲ"ဟူ၍ဖြစ်၏ ဤခံယူချက်ဖြင့် ဆရာတော်သည် ကျောင်းသားငယ်ဘဝက သူ့အရွယ်နှင့်သူ စာပေသင်ကြားခြင်း အလုပ်ကို အပတ်တကုတ် ကြိုးစားခဲ့၏၊ သာမဏေဘဝရောက်သောအခါတွင်လည်း ရပ်နားခဲ့ခြင်းမရှိ၊ ရဟန်းငယ်ဘဝတွင်လည်း ပြည့်စုံရမည့် အရည်အသွေးတို့ ပြည့်ဝစုံလင်အောင် မီးကုန်ယမ်းကုန် ကြိုးစားခဲ့၏၊ ပညာဗဟုသုတ ဆည်းပူးခဲ့၏။

ထိုဘဝမှတစ်ဆင့်တက်၍ စာချဘုန်းကြီးဘဝသို့ ရောက်သောအခါတွင်ကား ပို၍ပင် လုံ့လဝီရိယ ထက်သန်ရပြန်တော့သည်၊ ဆရာတော်က ပြောလေ့ ပြောထရှိ၏၊ "ဈေးကံက အကျိုးပေးတယ်ဆိုတာ သူ့ချည်းပဲ အကျိုး မပေးနိုင်ပါဘူး၊ ယခုပစ္စုပ္ပန် အခြေအနေမှာ ကိုယ်က သဒ္ဓါ သတိ ပညာတွေနှင့် ဦးဆောင်ပြီး လုံ့လ ဝီရိယသန်သန်နှင့် အခြေခံ ကောင်းအောင် ကြိုးစားထားမှ (ရေလာမြောင်းပေး လုပ်ထားမှ) ဈေးကံတို့ဆိုတာ အခွင့်သာပြီး ရောက်လာ အကျိုးပေးနိုင်တာပဲ"ဟူ၍ ဖြစ်သည်၊ ဤခံယူချက်ကို လေးလေးနက်နက် စွဲကိုင်ထားပြီးလျှင် ကိုယ်တော်တိုင်လည်း လုံ့လဝီရိယထက်သန်တော်မူ၏၊ တပည့်များကိုလည်း ဤအတိုင်းပင် ဩဝါဒ ပေးတော်မူသည်။

## ကျမ်းစာများရေးသားခြင်း

ပခုက္ကူ မဟာဝိသုတာရာမတိုက်ကြီး၌လည်း ကောင်း, မန္တလေးမြို့ အဘယာရာမရွှေဂူတိုက်ကြီး၌ လည်းကောင်း စာချဘုန်းကြီးဘဝဖြင့် တာဝန်ထမ်း ဆောင်နေရစဉ် ပတ်ဝန်းကျင်၏အထင်သေးမှု မခံရ အောင် အရာရာတွင် ဉာဏ်ပညာယှဉ်၍ ထာဝစဉ် ဖွဲလုံ့လသန်ခဲ့ရ၏၊ မေတ္တာ စေတနာ အရင်းခံပြီး သင်ကြားပို့ချပေးသဖြင့်လည်း အများ၏ဆန္ဒကို ပြည့်ဝစေခဲ့နိုင်၏၊ ဤနည်းဖြင့် မိမိ၏ စေတနာ, မေတ္တာ, မိမိ၏ အသိဉာဏ်ပညာ, မိမိ၏ အတွေး အခေါ် အယူအဆများ မပျောက်ပျက်ဘဲ ထင်၍ ကျန်ရစ်အောင်ဟု သဘောထားပြီးလျှင် သက်တော် ၂၉ နှစ် သိက္ခာတော် ၁၀ ဝါအရတွင် စတင်၍ "ကျမ်းစာ"ရေးသားခဲ့လေသည်။

ရေးသားခဲ့သော ကျမ်းစာများကို အများက လက်ခံကြပြန်သောအခါ ဆက်လက်ရေးသားခြင်း, တစ်ဖက်မှလည်း စာပေပို့ချခြင်း, ကျောင်းတိုက် သံဃာများကို အုပ်ချုပ်ခြင်း, တရားဓမ္မဟောပြခြင်း တို့ဖြင့် အလုပ်တွေ ပို၍ များလာရပြန်တော့သည်။

ဒုတိယကမ္ဘာစစ်ကြီး မဖြစ်မီမှသည် စစ်ပြီး၍ လွတ်လပ်ရေးခေတ်သို့ကိုင် ရောက်လာခဲ့လေပြီ၊ ရေးသားထုတ်ဝေ ပြီးစီးခဲ့သော ကျမ်းစာများမှာ...

၁။ ရတနာ့ဂုဏ်ရည်
၂။ အခြေပြုသဂြိုဟ်
၃။ အခြေပြုသဒ္ဒါ
၄။ သင်္ဂြိုဟ်ဘာသာဋီကာ
၅။ ဝီထိနှင့်သုံးချက်စုဘာသာဋီကာ
၆။ ကိုယ်ကျင့်အဘိဓမ္မာ
၇။ ပါတိမောက်ဘာသာဋီကာ
၈။ ရူပသိဒ္ဓိဘာသာဋီကာ (ပ)
၉။ ရူပသိဒ္ဓိဘာသာဋီကာ (ဒု)
၁၀။ ကစ္စည်းဘာသာဋီကာ (ပ)
၁၁။ ကစ္စည်းဘာသာဋီကာ (ဒု)
၁၂။ အနာဂတ်သာသနာရေး ဟူ၍

၁၂ အုပ် လောက် ရှိလေပြီ၊ ရေးသားပြီးနောက် ပုံမနှိပ်ရသေးသော လက်ရေးမူကြမ်းစာအုပ်များ လည်း ရှိသေး၏။

## ထိုက်တန်၍ရသောဘွဲ့

အချိန်အားဖြင့် (၁၉၅၀-၅၁) ကောဇာသက္ကရာဇ် ၁၃၁၂ ခုနှစ်ဖြစ်၏၊ လွတ်လပ်ရေးရပြီးနောက် နိုင်ငံတော်အစိုးရက အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်များ ဆက်ကပ်ရေးအစီအစဉ်ကို ပြုလုပ်သောအခါ ဆရာတော် အရှင်ဇနကာဘိဝံသကို အဦးဆုံးစဉ်းစား၍ (အဦးဆုံး) အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် ဆက်ကပ်သည်ကို ခံယူတော်မူရ၏။

အမှန်မှာ... စစ်မဖြစ်မီ သက္ကရာဇ် ၁၂၉၉ ခု သင်္ဂြိုဟ်ဘာသာဋီကာစာအုပ်ကြီး ထွက်ပြီးကတည်းကပင် "အဂ္ဂမဟာပဏ္ဍိတဘွဲ့နှင့်ထိုက်တန်ပါပေသည်"ဟု ကျောက်စာရုံးက ဝန်ခံထားပြီးဖြစ်၏၊ "သို့သော် ကျမ်းပြုပုဂ္ဂိုလ်က အသက်ငယ်နေသေး၍ စောင့်ဆိုင်းပါဦး"ဟု ဆိုင်းငံ့ထားရာမှ ခေတ်ပျက်သွားသဖြင့် မျက်ခြည်ပြတ်ခဲ့ရသည်။

ယခုကား ဖွဲလို့လ အရှင်းတည်၍ လုပ်ဆောင်ကြိုးစားခဲ့သော လုပ်အားများ၏ အဖိုးအခအဖြစ် ထိုက်ထိုက်တန်တန် နိုင်ငံတော်အစိုးရက "အဂ္ဂမဟာပဏ္ဍိတ"ဘွဲ့ကို ဆက်ကပ်ဂုဏ်ပြုလှူဒါန်းကြခြင်း ဖြစ်သည်၊ သို့သော် ဆရာတော် အရှင်ဇနကာဘိဝံသကား ကျမ်းစာရေးသားရာတွင်လည်းကောင်း၊ တစ်နေရာနှင့်တစ်နေရာ ဆက်သွယ် စာပေးရာတွင်လည်းကောင်း ယင်း"အဂ္ဂမဟာပဏ္ဍိတ"ဟူသော ဂုဏ်ထူးကို တစ်စုံတစ်ခုသောနေရာ၌မျှ အသုံးချတော်မူခြင်း မရှိခဲ့ပေ၊ တံဆိပ်တုံးများနှင့်ဘွဲ့လက်မှတ်များကိုလည်း မိမိအနားတွင် ချိတ်ဆွဲထားခြင်း မရှိခဲ့ပေ။

သံယိကပစ္စည်းသိမ်းဆည်းသောကိုယ်တော်ထံပင် အပ်နှံလိုက်တော့သည်၊ နောက်ပိုင်းကျမ်းစာများ ရိုက်နှိပ်ရာတွင် သကျသီဟ၊ ပထမကျော်၊ အဂ္ဂမဟာပဏ္ဍိတစသော ဘွဲ့ထူးဂုဏ်ထူးများကို မထည့်ရန်ပင် ညွှန်ကြားတော်မူခဲ့သည်။

# မကျွန်ခန်းနိုင်သော ဆရာသမားတို့၏မေတ္တာအေးရိပ်

## ဆရာတော်ကြီးကျေနပ်အားရ

ဤသို့လျှင် အဂ္ဂမဟာပဏ္ဍိတဘွဲ့ရသော ကာယကံရှင် ဆရာတော် အရှင်ဇနကာဘိဝံသက "အဂ္ဂမဟာပဏ္ဍိတ"ဘွဲ့လက်မှတ်နှင့်ဘွဲ့တံဆိပ်တုံးကြီးတို့ကို တလေးတစား အရေးမထားသော်လည်း စစ်ကိုင်းတောင်ရိုးမှ (ချမ်းအေးဆရာတော်ဟု တွင်သော) ကျေးဇူးရှင် ဒုတိယ မဟာဂန္ဓာရုံဆရာတော်ဘုရားကြီးကမူ တပည့်ကြီးအတွက် အားရလှဘိခြင်း၊ ကျေနပ်လှဘိခြင်း၊ ဝမ်းသာလှဘိခြင်းဖြစ်သည်ဟု ဆို၏၊ ထိုအချိန်က ထိုကျေးဇူးရှင်ဆရာတော်ဘုရားကြီးသည် အမရပူရ ဂန္ဓာရုံသို့ ကြွရောက်သီတင်းသုံးနေတော်မူခိုက်လည်း ဖြစ်သည်။

၁၃၁၁ ခု နွေဦးပေါက်ကပင် ဖြစ်၏၊ စစ်ကိုင်းတောင်ရိုးမှာ ပူအိုက်လွန်းခြင်း၊ ဆရာတော်ကြီးမှာလည်း သက်တော် ၉၀ ရှိပြီဖြစ်၍ ကျန်းမာရေးအကောင်းနည်းလာခြင်း၊ တောင်မြို့ဘက် ဂန္ဓာရုံမှာ ပြောင်းရွှေ့ သီတင်းသုံးနိုင်ပါလျှင် မန္တလေးက ကျွမ်းကျင်သည့်ဆရာဝန်ကြီးများ လွယ်ကူစွာလာ၍ ကုသပေးနိုင်မည်ဖြစ်ခြင်း ဤသို့ စသည်ဖြင့် စစ်ကိုင်းဂန္ဓာရုံ၏အခြေခံ မန္တလေးဒါယကာများက လျှောက်ထားသောကြောင့်လည်းကောင်း၊ ဆရာတော်ကြီးကိုယ်တိုင်ကလည်း ငယ်တပည့်ကြီးအား အထူးချီးမြှောက်တော်မူလို၍လည်းကောင်း အမရပူရ ဂန္ဓာရုံသို့ ကြွ၍ သီတင်းသုံးနေတော်မူခြင်းဖြစ်သည်။

ထိုသို့ သီတင်းသုံးနေတော်မူရာမှ ၁၃၁၂ ခုနှစ်တွင် အရှင်ဇနကာဘိဝံသ ဆရာတော် "အဂ္ဂမဟာပဏ္ဍိတဘွဲ့ ဆက်ကပ်လှူဒါန်းမှုကို ခံယူရသည်"ဟု သတင်းထွက်လာသောအခါ ဒုတိယ မဟာဂန္ဓာရုံဆရာတော်ကြီးက အလွန်အားရတော်မူသည်ဟူ၏၊ အားရဝမ်းသာလွန်း၍ သူ့ထံသို့ရောက်လာသော ဒါယကာ ဒါယိကာမတို့အား ခဏခဏ တဖွဖွပင် ပြော၍ ပြော၍ ချီးမွမ်းတော်မူသတတ်။

စက္ခုနှစ်ကွင်းက အလင်းရောင်ကောင်းကောင်း မရတော့သော်လည်း မှုန်မှုန်စမ်းစမ်းဖြင့် ဝမ်းသာလွန်း၍ ပြုံးကာပြုံးကာ မိန့်တော်မူပါသတတ်။

## သာသနာအတွက် လုပ်နေတာပါ

ဆရာတော် အရှင်ဇနကာဘိဝံသ အနေဖြင့်ကား အဂ္ဂမဟာပဏ္ဍိတဘွဲ့ရလာသည်ကိုလည်း ထူးဆန်းသည်ဟု မထင်ချေ၊ တစ်နေ့နေ့တွင် ရလာလိမ့်မည်ဟုလည်း သိထား၏၊ ယခုမှမဟုတ်၊ ခေတ်မပျက်မီ သင်္ဂြိုဟ်ဘာသာဋီကာကြီး ထွက်ပြီးစကပင် "အဂ္ဂမဟာပဏ္ဍိတ"ဘွဲ့နှင့်ထိုက်တန်ပါပေသည်ဟုဆိုင်ရာဌာနတို့က ဝန်ခံထားကြပြီး ဖြစ်သည်၊ ထို့ကြောင့် ပို၍လည်း ဝမ်းသာမလာသည်မှာ အမှန်ဖြစ်၏။

ဆရာ့ဆရာတော်ဘုရားများလည်း အားပါးတရ လက်ခံလိုကြသည် မဟုတ်ချေ၊ အများနှင့်မဆန့်ကျင်လို၍သာ လက်ခံတော်မူကြခြင်းဖြစ်သည်ဟု သိထားတော်မူ၏၊ ထို့ကြောင့် အဂ္ဂမဟာပဏ္ဍိတဘွဲ့ ရပြီးစက ဤသို့ မိန့်တော်မူဖူးသည်…

"ဘုန်းကြီးက အဂ္ဂမဟာပဏ္ဍိတဘွဲ့ရအောင် လုပ်နေတာမဟုတ်ပါဘူး၊ ဘုရားသာသနာတော်အတွက် ဘုရားရှင်၏အလိုတော်ကျ ဖြစ်နိုင်သမျှ ဖြစ်အောင် သာသနာတော်ကို ပြုပြင် စောင့်ရှောက်နေခြင်းသာ ဖြစ်ပါတယ်၊ ဒါကြောင့်… ဘုန်းကြီးအတွက်အဂ္ဂမဟာပဏ္ဍိတဘွဲ့ရတာဟာ လမ်းဆုံးပြီ မဟုတ်သေး၊… သာသနာ့တော်အတွက် လုပ်နေကျ အလုပ်တွေ ဆက်လက်လုပ်နေရဦးမှာသာ ဖြစ်တယ်"

ဤသို့ပင် ဆရာတော် အရှင်ဇနကာဘိဝံသက မိမိ၏ဝါဒ, မိမိ၏လမ်းစဉ်, မိမိ၏လုပ်ငန်းနှင့် မိမိ လျှောက်ရမည့်လမ်းမကို ကျကျနန မြင်ထားသည့်အတိုင်း ရောင့်ရောင့်ရဲရဲပင် ကြေညာတော်မူသည်။

ကြေညာမြွက်ဆိုသည့်အတိုင်းပင် မဆိုင်းမရပ် တစ်ဘဝလုံး တလှုပ်လှုပ်တရှားရှား အနားမယူ, ဘုရားသာသနာတစ်ခုတည်းအတွက်သာ အာရုံပြုထား၍ ကြိုးစား အလုပ် လုပ်တော်မူခဲ့ပါသည်။

## ယယ်ယယ်တုန်းက အလွန်ရှက်တတ်

ကျေးဇူးရှင် ဒုတိယမဟာဂန္ဓာရုံဆရာတော်ဘုရားကြီး အနေနှင့်မူ ခံယူချက်တွေ, ဝါဒလမ်းစဉ်တွေ, လုပ်ငန်းရပ်တွေ, ဦးတည်ချက်တွေ စသည်ဖြင့် စဉ်းစားနေဖို့တာဝန်မရှိပါ၊ စာမေးပွဲအောင်လာသော သားယယ် သမီးယယ်အတွက် အားတက်ဂုဏ်ယူရသော မိဘတို့ကဲ့သို့ ဝမ်းသာအားရ ဂုဏ်ယူတော်မူခြင်းသာ ဖြစ်ပါလိမ့်မည်၊ ယူလည်း ယူလောက်စရာ ဖြစ်နေ၏၊ သက်တော် ၉၀ ကျော်ဆရာတော်ကြီးက အရှင်ဇနကာဘိဝံသကို ကလေးငယ်ကလေးလို မြင်နေတုန်း ဖြစ်ကောင်း ဖြစ်နေပါလိမ့်မည်၊ ဆရာတော်ကြီးထံသို့ ရောက်စက အရှင်ဇနကာဘိဝံသ လောင်းလျာ မောင်ဇွေးလွင်ကလေးမှာ ၁၃ နှစ်မျှသာ ရှိသေး၏၊ ကလေးငယ်အား ဤဆရာတော်ကြီးက စားပုံသောက်ပုံ နေပုံထိုင်ပုံမှအစ စိတ်နေစိတ်ထားအားလုံး သူတော်ကောင်းဖြစ်အောင် သင်ပြပေးတော်မူခဲ့ရသည်။

ဤသို့ ကြည့်ရင်းကြည့်ရင်းပင် တရွေ့ရွေ့ပြောင်းကာ ယခုလို "အဂ္ဂမဟာပဏ္ဍိတဘွဲ့ထူးရပုဂ္ဂိုလ်ကြီး" ဖြစ်လာသည်ကို အံ့သြနေတော်မူဟန်ရှိ၏၊ ဆရာတော်ကြီးက အမိန့်ရှိသည်…"မောင်ဇနကကလေးဟာလေ တို့ဆီကို ရောက်လာစက အငယ်သား ရှိပါသေးတယ်၊ လူက သွယ်သွယ်သေးသေး, ဆံရစ်ဝိုင်းကလေးနဲ့, သီလရှင်ပွေ့ကြားထဲ ရောက်ရင် ရှက်ကလဲ ရှက်တတ်ပါဘိသနဲ့" စသည်ဖြင့် ယယ်ယယ်က အမူအကျင့်ကလေးများကို ပြန်လည် မိန့်တော်မူတတ်ပါသည်။

ဤသို့ရှက်တတ်ပုံကို မြောင်းမြဆရာတော်ကြီးကလည်း တစ်ခါက အမိန့်ရှိဖူးသည် …"တောင်မြို့ဘုန်းကြီးက ခုမှ ဝလာတာပါ၊ ငယ်ငယ်က ဖြူဖြူသေးသေး, ပိန်ပိန်ပါးပါး, အလွန်ရှက်တတ်တယ်၊ တစ်ခါတော့ တို့က မြင်းမူ အလှူကပွဲကို ခေါ်သွားဖူးတယ်၊ ဟိုက ဘုန်းကြီးက မန်ကျည်းရွက်အလိုရှိလို့ အခူးခိုင်းတယ်၊ "မန်ကျည်းပင်ပေါ် တက်ရအောင် ပုဆိုး ခါးတောင်းကျိုက်ကွာ" ဆိုတော့ သူက ခါးတောင်းမကျိုက်ဝံ့ဘူး, ရှက်နေတယ်, ပေါင်ပေါ်မှာ စိုးလို့၊ ဒီတော့ ဟိုက ဘုန်းကြီးကပြောတယ်…"မင်း သာသနာမှာ သက်န်းဝတ်နှင့်သာ အမြဲနေပါကွာ, လူ့ဘဝဆိုရင်တော့ မယားအဆဲ ခံရမယ်"တဲ့။

ဆရာတော်အရှင်ဇနကာဘိဝံသကလည်း သူ၏ ရှက်တတ်ပုံကို တစ်ခါတုန်းက စာချရင်း စပ်မိ၍ ပြောပြဖူးပါ၏… "မန္တလေးမှာ ငါ ငယ်ငယ် ကျောင်းသားဘဝက ဈေးချိုကို သွားမယ်လုပ်တော့ ပိုးပုဆိုးအနီ အသစ်ကလေးနှင့် ရှပ်အကျႌဖြူဖြူ ကလေးကို ကျောင်းက ကိုယ်တော်တွေရှေ့ ဝတ်ပြီး ထွက်ရမှာ ရှက်နေတယ်, ဝတ်ကလဲ ဝတ်ချင်, ဒါနဲ့ သူများ မမြင်အောင် ကျောင်းခေါင်းရင်းပေါက်က အောက်ကို ချပြီးမှ ဝတ်ထွက်ခဲ့ရတယ်"တဲ့။

## ပူဇျာဖိုလ္လိုက် ရင်တွင်းခိုက်မှု

ဤသို့လျှင် အရှင်ဇနကာဘိဝံသလောင်းလျာ မောင်ဒွေးလွင်ကလေးမှာ ကျောင်းသားငယ်ဘဝမှ စ၍ ဆရာတော်ဘုရားကြီးတို့၏မျက်မှောက်၊ အုပ်ထိန်းမှုအောက်တွင် နေခဲ့ရ၏၊ သာမဏေဖြစ်၍ ကိုရင်ဇနကဘဝ, ရဟန်းဖြစ်၍ ဦးပဉ္စင်း ဦးဇနကဘဝသို့တိုင်အောင်လည်း ဆရာတော်ကြီးတို့၏ ထိန်းချုပ်မှုက မလွတ်သေး၊ ထို့နောက် စာချဘုန်းကြီးဘဝ ဦးဇနက, ကျမ်းပြုဆရာတော်ဘဝ "အရှင်ဇနကာဘိဝံသ"ဖြစ်သည့်တိုင်အောင်ပင် အရှိန်က မကုန်သေးသလို ဖြစ်ဟန်တူပါသည်။

ဤသို့လျှင် အစဉ်ထာဝရမိဘသဖွယ်ထီးလိုမိုး၍ အကျိုးလိုလားစွာ စောင့်ရှောက်ခြင်းကို ခံယူရသဖြင့် အရှင်ဇနကာဘိဝံသအဖို့ ဆရာသမားတို့၏မေတ္တာကို အပြည့်အဝ ရသည်ဟု ဆိုရပေမည်၊ ထိုသို့ စောင့်ရှောက်ချီးမြှောက်တော်မူကြသောဆရာသမားတို့တွင် ယခုတိုင်အောင် စောင့်ရှောက်ချီးမြှောက်တော်မူလျက်ရှိသော စစ်ကိုင်းတောင်ရိုး မဟာဂန္ဓာရုံ ဒုတိယဆရာတော်ဘုရားကြီးမှာ ၁၃၁၃ ခုနတ်တော်လပြည့်ကျော် ၁၀ ရက်အရောက်တွင် (သက်တော်လည်း ၉၂ နှစ်ရှိပြီဖြစ်၍) တောင်မြို့ ဂန္ဓာရုံကျောင်းတိုက်မှာပင် ပျံလွန်တော်မူတော့၏။

ထိုအခါ ဆရာတော် အရှင်ဇနကာဘိဝံသမှာ ပူဇျာဖိုလ္လိုက် ရင်တွင်းခိုက်အောင် သောကမီးမြိုက်ခြင်း ခံရဟန်တူပါသည်၊ နှလုံးစိတ်ဓာတ် အပူမီးဟပ်သလိုလည်း အရပ်ရပ် အထွေထွေ ထုံးစံအတိုင်း ဖြစ်ပါပေလိမ့်မည်၊ ထို့ကြောင့် ရင်တွင်း၌ ဖြစ်ပေါ်လာသော ခံစားချက်တို့ကို စာရွက်ပေါ်တွင် ရေးတင်၍ ကျေးဇူးရှင်ဆရာတော်ဘုရားကြီးအား အောက်ပါအတိုင်း ဝပ်တွားလျက် လေးစားစွာ ပူဇော်ကန်တော့လေတော့သည်။

## ချမ်းအေးဆရာတော်စာသင်ကြွခြင်း

၁။ ဥပ္ပတ္တိံ တေ ပဝေဒေမိ,
မုနိသာသန မာမက၊
ဇာတိဘူမျာ ဝိသုဒ္ဓါရုံ–
နေရုံ ပထမမာဂတော။

မုနိသာသန် - ရှင်တော်ဘုရား, ဟောမိန့်ထားသည့်, သုံးပါးမြတ်စွာ, သာသနာတော်ကြီးကို၊ မာမက-အသက်နှင့်လဲ,ကိုယ်စိတ်စွဲ၍,အမြဲကြည်ဖြူ, မြတ်နိုးတော်မူသော ဆရာတော်ဘုရား၊ တေ(တဝ)-အသက်ဆုံးတိုင်, မမုန်းနိုင်အောင်, ဘုန်းလှိုင်ကျော်ကြား, ဆရာတော်ဘုရား၏၊ ဥပ္ပတ္တိံ-ဖြစ်ကြောင်းကုန်စင်, မစုံလင်လည်း, ဂုဏ်အင်လှစ်ဖော်, အဖြစ်တော်ကို၊ ပဝေဒေမိ-ကြားမိသမျှ, များသိရအောင်, လှစ်ဟမြွက်ချွေ, လျှောက်ထားပါရစေဘုရား။...

ဇာတိဘူမျာ - ဇာတိချက်ကြွေ, မွေးရာမြေမှ၊ ဝိသုဒ္ဓါရုံနေရုံ-ဝိသုဒ္ဓါရုံ, သားမျိုးစုံသည့်, ရွှေဘုံရိပ်ထီး, ရွှေမြင်းမိုရ်တောင်တော်မြတ်ကြီးသို့၊ ပထမံ-အစပကတူး, ရှေးဦးစွာ၊ အာဂတော-ပိဋကတ်သုံးသွယ်, နိကာယ်ငါးကျမ်း, တစ်ဖက်ကမ်းရောက်, ထုတ်ချင်းပေါက်အောင်, မွှေနှောက်မည်ပြဋ္ဌာန်း၍, ကြွမြန်းသီတင်းသုံးတော်မူခဲ့ပါသည်ဘုရား။

## တောထွက်တော်မူခြင်း

၂။ နိက္ခန္တော သဟ ထေရေဟိ,
တတော စစ်ကိုင်းတိဝိသုတံ၊
နေကာယိန နိဝါသာယ,
ဂန္ဓာရာမာဒိမာပကော။

တတော-ထိုဝိသုဒ္ဓါရုံ, မြို့ရွှေဘုံမှ၊ စစ်ကိုင်းတိဝိသုတံ-သူတော်ဝလေ့, လွန်ပျော်မွေ့ဖို့, ချမ်းမြေ့သာခေါင်, စစ်ကိုင်းတောင်သို့၊ ထေရေဟိ-မဟာဂန္ဓာရုံ, တိုင်းလုံးတုန်မျှ, ဆန်စုန်ကျော်ဟိုး, မထေရ်ကြီးတို့နှင့်၊ သဟ နိက္ခန္တော-နှစ်ကိုယ်မခွဲ, တစ်ကိုယ်ထဲသို့, စိတ်စွဲအတူ, တောထွက်တော်မူခဲ့သည်ဖြစ်၍၊

နေကာယိန်-ရွှေကျောင်ဂိုဏ်းတွင်, သမိုင်းတင်ဖို့, ထေရ်စဉ်နောက်နှောင်း, သူတော်ကောင်းတို့၏၊ နိဝါသာယ-ကိုယ်တော့်အလား, ကမ္ဘဋ္ဌာန်းပွားလျက်, တရားနှင့် ပျော်နေတော်မူကြဖို့အလို့ငှာ၊ ဂန္ထာရာမာဒိမာပကော-ပထမဂန္ထာရုံ, စသည်ခြံလျက်, ဖုံဖုံစိမံ, အရှည်ခံအောင်, တည်ဖန်တော်မူခဲ့ပါပေသည် ဘုရား။

## တောကြမ်းကြီးဖြစ်ခဲ့ရခြင်း

**၃။ ယဿ ဓေယျော နိက္ခန္တမှိ,**
**အာသိ ယံ မိဂမာသယော၊**
**ကိစ္စာဟာရော ကိစ္စာဝါသော,**
**နိစ္စံ ဒုဋ္ဌပရက္ကမော။**

ယဿ ထေရဿ-ဒုတိယမဟာဂန္ထာရုံ, တိုင်းလုံးတုန်မျှ, ဆန်စုန်ကျော်ဟီး, အကြင် ကျေးဇူးရှင် ချမ်းအေးဆရာတော်ဘုရားကြီး၏၊ နိက္ခန္တမှိ-ဝိသုဒ္ဓါရုံ, မြို့ရွှေဘုံမှ, ရဂုံသာမော, ဤမြိုင်တောသို့, မနောထက်သန်, ထွက်စံတော်မူစ, အခါကာလ၌၊ အယံ ဓေယျော - ယခုသမယ, ရှုမဝအောင်, တုပမမြင်, တောင်ပြင်မလပ်, ချောင်စဉ်စပ်၍, ရစ်ပတ်ဝေဆာ, သေလာခေါင်ထီး, ဤ ဓေယျာတောင်ကြီးသည်၊ မိဂမာသယော အာသိ - သမင်ဒရယ်, ချေငယ်သစ်ကျုတ်, မြည်ဟုတ်သံညောင်း, သားအပေါင်းတို့, သောင်းပြောင်းရောပွမ်း, တောစခန်းဖြင့်, တောကြမ်းကြီး ဖြစ်ခဲ့ဖူးလေပြီ။ သော ထေရော - ထိုတောစခန်း, ထိုတောတန်း၌, တောကြမ်းကိုမှီ, မနောကြည်လျက်, ယောဂီအလုပ်, လွှန်အားထုတ်လျက်, စိတ်ရုပ်ကြည်လင်, ထိုကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည်၊ ကိစ္စာဟာရော-ခရီးဝေးကွာ, ဆွမ်းကိုရှာ၍, ရေပါမလွယ်, တကယ်ထိုစဉ်, ငြိုငြင်သော အာဟာရ ရှိပါလျက်၊ ကိစ္စာဝါသော-ကျောင်းတော်သစ်ပင်, မြေပြင်မွေ့ရာ, သေလာကျောက်တုံး, ဦးခေါင်းအုံးလျက်, ထေရ်ဘုန်းစံရာ, မခံသာအောင်, မှန်စွာညှဉ်းဆဲ, အဆင်းရဲကြီးဆင်းရဲတော်မူပါလျက်၊ နိစ္စံ-နေ့ရောညဉ့်ပါ, ဘယ်ခါမလပ်, ထပ်တလဲလဲ, မပြတ်စွဲတော်မူလျက်သာလျှင်၊ ဒုဋ္ဌပရက္ကမော - ဘယ်သူ့ကမှ, တုမပဘဲ, ခုဘဝတွင်, ခန္ဓာဝန် လက်စသိမ်း၍, အေးငြိမ်းအောင် တရားကုတ်လျက်, အားထုတ်တော်မူခဲ့သော အရှင်မြတ်ကြီးပါဘုရား။

## ခန္ဓာသစ် လဲတော်မူခြင်း

**၄။ သီလဝါ သီလဝန္တေသု,**
**ပညဝါ စ သမာဟိတော၊**
**သော နော ဓိဏ္ဏံ ဇဟိတွာန,**
**ဒေဟံ ဒေဝါနမဂ္ဂဟီ။**

သီလဝန္တေသု-စတုပါရိ, သုဒ္ဓိလေးဖြာ, သိက္ခာသီလ, ပြည့်ဝပေတောင်း, အရှင်ကောင်းတို့တွင်၊ သီလဝါ စ-ခရုသင်းပွတ်သစ်, အတူဖြစ်အောင်, စနစ်ယူဆင်, လွှန်ဖြူလွှင်သည့်, သန့်စင်သောသီလလည်း ရှိပေထသော၊ ပညဝန္တေသု-ဝိပဿနာ ဉာဏ်ပညာဖြင့်, လွှန်စွာခိုင်ဖြိုး, ပညာရှိကြီးတို့တွင်၊ ပညဝါ စ-ဖြစ်ပျက်ရုပ်နာမ်, အရုပ်ဟန်ကို, ဟုတ်မှန်တိုင်းသိ, ဝိပဿနာပညာရှိလည်း ဖြစ်ပေထသော၊ သမာဟိတော - က္ကန္ဒြေခြောက်ပါး, မပေါက်ကြားအောင်, ထောက်ထားသတိ, သမာဓိလည်း ရှိပေထသော၊ သော နော ထေရော-ငါတို့ ဂန္ထာရုံ, ရဂုံပျော်မှီး, ထိုဆရာတော်ဘုရားကြီးသည်၊ ဇိဏ္ဏံ ဒေဟံ-ကိုးဆယ်နှစ်နှစ်, လွှန်ပြီးဖြစ်၍, အသစ်မပြောင်း, ဖြစ်မကောင်းဖို့, အကြောင်းဖန်လာ, ဟောင်းခန္ဓာကို၊ ဇဟိတွာန-အစာမယူ, ဆေးမကူဘဲ, လျစ်လျူရှုကာ, စွန့်ပစ်ခွာ၍၊ ဒေဝါနံ - ကံအဟုန်နှင့်, အစုံသင့်က, ဘုံမြင့်ဇာတ်ပြောင်း, နတ်အပေါင်းတို့၏၊ ဒေဟံ- ဝင်းတစက်စက်, အဆင်းထွက်၍, လင်းလျက်ပျိုမျစ်, ကိုယ်အသစ်ကို၊ အဂ္ဂဟီ (အဂ္ဂဟီဝတ) - အခါတော်ရောက်, အပင့်ထောက်၍, ဝမ်းမြောက်ကြည်ဖြူ, အော်...လက်ခံတော်မူလေပြီတကား။

## နောက်ဆုံးကန်တော့ခြင်း

၅။ ပုရေ တွံ့ ပိယဝါစာယ,
-ဝါစေသိ သဝိပဿနံ၊
တုဏှီဘူတမ္ပိ မာနိနံ,
အယံ စရိမ မာနနာ။

ပုရေ-နတ်ခန္ဓာဟူ, မယူမီကလေး, လွန်မဝေးသည့်, ရှေးရှေးကာလ, ခါသမယဌ်၊ တွံ့-မဟာဂန္ဓာရုံ, ရဂုံပျော်မှီး, အရှင်ဆရာတော်ဘုရားကြီးသည်၊ ပိယဝါစာယ-နှစ်သက်စဖွယ်, လွန်တင့်တယ်အောင်, ခံ့ထည်ချိုမြ, သာယာလှသောစကားဖြင့်၊ သဝိပဿနံ-ကိုယ်တော့်စိတ်တွင်, အမြဲထင်သည့်, ဉာဏ်စဉ်တက်လှမ်း, ဝိပဿနာကမ္မဋ္ဌာန်းကို၊ ဝါစေသိ-ခြေဆုံးခေါင်းဆုံး, တစ်ကိုယ်လုံးမျှ, လုံးလုံးမဆက်, ဖြစ်တိုင်းပျက်ဟု, နှုတ်မြွက်ဆိုစေ, ပို့ချတော်မူခဲ့ပါပေသည်ဘုရား၊ တုဏှီဘူတမ္ပိ-မလှုပ်ကိုယ်စိတ်, နှုတ်သံပိတ်၍, ဆိတ်ဆိတ်ခုလို, နေတော်မူသည်ကိုလည်း၊ မာနိနံ-ဦးတချချ, ဖူးမဝ၍, ရှုရမလို, စိတ်မှာဖိုလျက်, ဤကိုယ်ယိမ်းယိုင်, သိမ်းမခိုင်ဘဲ, မထိန်းနိုင်ကြသောတပည့်အများတို့၏၊ အယံ မာနနာ-ရုပ်ကလာပ်တော်, အတူမျှော်၍, ပူဇော်ဦးချ, ဤရှိခိုးကြခြင်းသည်၊ စရိမ မာနနာ-နှလုံးစိတ်ဓာတ်, အပူဟပ်လည်း, ရုပ်ကလာပ်ရှိတုန်း, ဂုဏ်တွေကျုံးလျက်, မပြုံးနိုင် မမုန်းနိုင်, အဆုံးတိုင် ကန်တော့ခြင်းပါဘုရား။ ။



ချမ်းအေးဆရာတော်

အရှင်သဒ္ဓမ္မမဟာထေရ် (၁၂၂၁–၁၃၁၃)

## ဆင္ဃသင်္ဂါယနာစာအုပ်များ၌ ထည့်သွင်းဖို့မော်ကွန်း

(ဤစာမူများ ရေးသားပေးခြင်းနှင့်ပတ်သက်၍ နောက်ခံအကြောင်းအရာ အနည်းငယ်မျှ ဖော်ပြ ရှင်းလင်းမှ ပို၍ သဘောပေါက်ပါမည်။)

### ဝိုင်–အမ်–ဘီ–အေအသင်းကြီး

ရန်ကုန်မြို့, ဗုဒ္ဓဘာသာကလျာဏယုဝ (ဝိုင်-အမ်-ဘီ-အေ)အသင်းကြီးကို သာသနာနှစ် ၂၄၅၀ ခု, ကောဇာသက္ကရာဇ် ၁၂၆၈ ခု, ခရစ်နှစ် ၁၉၀၆ ခုတွင် ခေတ်အမြင်ရှိသူများ စုပေါင်းတည်ထောင်ခဲ့ကြ၏၊ ရည်ရွယ်ချက်များမှာ

(က) တိုင်းသူပြည်သားများကို တိုင်းတစ်ပါးတို့၏ လက်အောက်မှ လွတ်မြောက်အောင် ရုန်းကန်ကြိုးစားဖို့ရာ မျက်စိဖွင့်ပေးရေး

(ခ) မြန်မာ့ရိုးရာယဉ်ကျေးမှုများ မကွယ်ပျောက်အောင် ထိန်းသိမ်းရေး၊

(ဂ) ယဉ်ကျေးမှု၏ အခြေခံဖြစ်သော စာပေများ ဖော်ထုတ်ရေးတို့ ဖြစ်ကြသည်။

ထိုရည်ရွယ်ချက်များအတိုင်း ဦးတည်ဆောင်ရွက်ခဲ့ကြရာ ပထမအချက်ဖြစ်သော မြန်မာ့လွတ်လပ်ရေးကြီး ရရှိခဲ့ကြလေပြီ၊ ထို့နောက် ဒုတိယအချက်, တတိယအချက်တို့ကို ယခုအခါ ဆက်လက်ဆောင်ရွက်ကြရန်

ဖြစ်တော့၏၊"မြန်မာလူမျိုးတို့၏ ကိုယ်နှုတ်စိတ်ထား ယဉ်ကျေးမှုများ ဘယ်ကရကြသနည်း" "ဗုဒ္ဓမြတ်စွာ ပိဋကတ်တော်များမှ ရကြသည်" ဤသို့ ရိုးသားသော စိတ်ထားရှိသူတိုင်း အမှန်မြင်ကြ၏၊ ထို့ကြောင့် ယင်းကိစ္စတို့ကို ဆောင်ရွက်ရန် ၁၃၁၂ ခု ဝါခေါင်လဆုတ် ၁၂ ရက် (၉ - ၉ - ၅၀) နေ့တွင် အသင်းကြီး၏ အမှုဆောင်လူကြီးများ အစည်းအဝေးထိုင်ကြ၏၊ ယင်း အစည်းအဝေးမှ...

(က) ယဉ်ကျေးမှုကိုဖြစ်စေသော ဗုဒ္ဓပိဋကတ်တော်များ ဦးစွာပထမ မူကောင်းမူသန့်ဖြစ်ရေး၊

(ခ) ထို့နောက် ယင်းပိဋကတ်တော်တို့ကို မြန်မာဘာသာသို့ ပြန်ဆိုရေး၊

(ဂ) ထို့ပြင် ယင်းပိဋကတ်များမှ ကိုယ်ကျင့်စာရိတ္တ ယဉ်ကျေးမှုဆိုင်ရာတို့ကို ရွေးထုတ်၍ ကျမ်းစာများ ပြုစု ဖြန့်ချိရေးဟူ၍ ဆုံးဖြတ်ကြသည်။

## ကြိုးပမ်းလုံ့လ ဆောင်ရွက်ခဲ့ကြ

ယင်းသို့ ဆုံးဖြတ်ချက်အတိုင်း... ဆက်လက် ဆောင်ရွက်နိုင်ကြရန် ထိုစဉ်က ဝိုင်-အမ်-ဘီ-အေ အသင်းကြီး၏ စာပေဖြန့်ချိရေးအဖွဲ့ အထွေထွေ အတွင်းရေးမှူးဖြစ်သော ဦးထိန်ဝင်းနှင့် အဖွဲ့ဝင် လူကြီးတို့သည် မြန်မာပြည်အောက်ထက်အနှံ့ ပျံ့အောင် သွားကြ၍ ဂိုဏ်းပေါင်းစုံဆရာတော်ကြီးများကို လျှောက်ထားခဲ့ကြသည်၊ ဂိုဏ်းဦးစီး သက်တော်ရှည် ဆရာတော်ဘုရားကြီး ၁၄ ပါးတို့လည်း ရန်ကုန်မြို့သို့ ကြွရောက်လာတော်မူကြ၏၊ စည်းဝေးတိုင်ပင်တော်မူကြသည်၊ တစ်ဖန် ထိုဆရာတော်ဘုရားကြီးများက မန္တလေးမြို့တွင် သီတင်းသုံးတော်မူကြသော သကျသီဟဓမ္မာစရိယ စာချဘုန်းကြီး ၅၁ ပါးတို့ကို ပင့်ဖိတ်စုစည်း၍ လက်ရှိပိဋကတ်မူများကို မန္တလေးမြို့ ပဥ္စမသင်္ဂါယနာတင် မင်းတုံးမင်းကြီး၏ ကုသိုလ်တော် ကျောက်စာမူများနှင့် တိုက်ဆိုင်ပေးဖို့ရန် တာဝန်ပေးတော်မူကြပြန်သည်၊ ပေးသည့်အတိုင်းလည်း ဆောင်ရွက်တော်မူကြသည်။

ထိုသို့ တိုက်ဆိုင်ပြီးမူကိုမှ တစ်ဖန် ဆရာတော်ဘုရားကြီးများက အဋ္ဌကထာ ဋီကာများနှင့်လည်းကောင်း၊ သီဟိုဠ် ယိုးဒယား ပိဋကတ်မူများနှင့်လည်းကောင်း၊ သဒ္ဒါကျမ်း အစောင်စောင်တို့နှင့်လည်းကောင်း ညှိနှိုင်းတိုက်ဆိုင်တော်မူကြပြန်သည်၊ ထိုသို့ တိုက်ဆိုင်ပြီး မူချောတို့မှာ ယခုအခါ "သင်ရိုးပိဋကတ်"ဟူ၍ ခေါ်ဆိုနေကြသော ဝိနည်း ၅ ကျမ်း၊ သုတ် ၃ ကျမ်း၊ အဘိဓမ္မာ ၇ ကျမ်း၊ အုပ်ရေအားဖြင့် ၂၀ တို့ ဖြစ်ပါသည်၊ သုတ်သင်ပြီးစီး၍ ဝိုင်-အမ်-ဘီ-အေအသင်းကြီး၏ လက်ဝယ်သို့ပင် ရောက်ရှိနေပေပြီ။

## မူချောကို အလှူခံခြင်း

ထိုအချိန်တွင် နိုင်ငံတော်ဝန်ကြီးချုပ်ဦးနု အမှူးပြုသော ဗုဒ္ဓသာသနာအဖွဲ့ကြီးက ဆဋ္ဌသင်္ဂါယနာတင်ရာတွင် အသုံးပြုရန် ယင်းအုပ်ရေ ၂၀ ကို အလှူခံကြသဖြင့် ၁၃၁၃ ခု တော်သလင်းလဆန်း ၈ ရက် (၈-၉-၅၁)နေ့တွင် အစည်းအဝေးထိုင်ပြီး ဝမ်းပြောက်ဝမ်းသာ လှူဒါန်းလိုက်ကြပါသည်၊ လှူဒါန်းစဉ်က "ဤမူများကို ပုံနှိပ်သောအခါ ဝိုင်-အမ်-ဘီ-အေအသင်းကြီး၏ ကြိုးပမ်းခဲ့ပုံကိုလည်း နိဒါန်းတွင် တစ်နေရာ၌ မော်ကွန်းတင်ပေးပါရန် တောင်းဆိုခဲ့ရာ တင်ပေးမည်ဖြစ်ကြောင်း ဝန်ကြီးချုပ်လည်း သဘောတူပြီး ဖြစ်ပါ၏၊ သို့အတွက် နိဒါန်းတွင် ထည့်သွင်းဖို့ရန် မော်ကွန်းစာတမ်းကို ဆရာတော်အရှင်ဇနကာဘိဝံသအား ဝိုင်-အမ်-ဘီ-အေ အသင်းကြီးက ရေးသားပေးဖို့ တောင်းပန်ခဲ့ကြ၏၊ သို့အတွက် ဆရာတော်က ပါဠိမူ၊ မြန်မာမူ နှစ်မျိုး ရေးသားချီးမြှင့်ပေးတော်မူခဲ့ပါသည်၊ ယင်းမူနှစ်မျိုးလုံးကို ၁၃၁၃ ခု တန်ဆောင်မုန်းလဆုတ် ၆ ရက် (၂၇-၁၁-၅၁)နေ့တွင် ဗုဒ္ဓသာသနာအဖွဲ့သို့ ပေးအပ်ထားပြီးလည်းဖြစ်၏၊ သို့ရာတွင် ဆဋ္ဌမူပိဋကတ်တော်များကို အကယ်ပုံနှိပ်သောအခါ ဝိုင်-အမ်-ဘီ-အေအသင်း၏ မော်ကွန်းစာတမ်းများကို မထည့်သွင်းဖြစ်ဘဲ ဖြစ်နေသဖြင့် ထိုစာမူများ ပျောက်ပျက်မသွားရအောင် ယခု ဖော်ထုတ်တင်ပြလိုက်ပါသည်။

## “သိဝမဏ္ဍ”
## ဗုဒ္ဓဘာသာကလျာဏယုဝသမိတိယာ သုဝိသောဓိတပိဋကာနံ ဗုဒ္ဓသာသနသမိတိနိယျာတနံ

ဗုဒ္ဓဿ ဘဂဝတော သာသနမာမကာ ကလျာဏယုဝါ ပညာသာဓိကစတုဿတဒွိသဟဿေ သာသနဝဿေ အဋ္ဌသဋ္ဌာဓိကဒွိသတေကသဟဿေ သာကေ ဝိုင်အမ်ဘီအေတိနာမေန ဗုဒ္ဓဘာသာ ကလျာဏယုဝသမိတိံ သမုဋ္ဌာယိံသု။

အယမေဝ ဟိ သမိတိ မြန်မာရဋ္ဌေ အညရဋ္ဌေသုရဟတ္တတော ယာဝ ပမောစနာ ပညာစက္ခုံ ဥမ္မီလေသိ၊ ဣဒါနိ ပမုတ္တကာလေပိ ရဋ္ဌသမဝါယဘူတမြန်မာမဟာရဋ္ဌနိဝါသီနံ ဥစ္စာကုလိနဘာဝဿ ပါကဋဘာဝါယ အစ္စန္တမူလံ ပရိယေသမာနာ သာမိတိကာ ဣမမဒ္ဒသံသု၊ “သကလေ လောကသန္နိဝါသေ ဥစ္စာကုလိနဘာဝေန ပါကဋာနံ နာနာရဋ္ဌကာနံ ဒန္တဘာဝေါ တေသံ ပရိစိတမေ့ဂန္ထေဟိ ကတော”တိ။

“မြန်မာ့ဇာတိကာပိ ကာယဝါစာစိတ္တေဟိ ဒန္တာ”တိ ပသံတိတာ ရဋ္ဌမိမမာဂတပုဗ္ဗေဟိ အညရဋ္ဌိကေဟိ၊ “သော စ ဒန္တဘာဝေါ ဗုဒ္ဓဿ ဘဂဝတော ပိဋကဂန္ထေဟေဝ ကတော”တိ ဥဇုကစိတ္တေန သဒ္ဒဟန္တိ၊ တတ္ထ ဟိ ဧကေနာပိ မဂ်လသုတ္တေန “မာတာပိတု ဥပဋ္ဌာနံ ပုတ္တဒါရဿ သင်္ဂဟော”တျာဒိနာ ကာယဿ စေဝ “သုဘာသိတာ စ ယာ ဝါစာ”တျာဒိနာ ဝါစာယ စ “အတ္တသမ္မာပဏိဓိ”တျာဒိနာ မနသော စ အတိဝိယ ဒန္တဘာဝေါ ကတော။

“ဧဝံ သရဋ္ဌကာနံ ဒန္တဘာဝဿ မူလံ ဗုဒ္ဓပါဝစနံ”တိ ဥ တွာ ဒွါဒသာဓိကတိသတေကသဟဿေ သာကေ သာဝဏမာသဿ ကာဠပက္ခဒွါဒသမေ ဒိဝသေ သမိတိယာ ဘာရနိတ္ထာရကသဘမကရိံသု၊ တတ္ထ စ ဣမေသံ တိဏ္ဏံ ဌာနာနံ ယာဝ နိပ္ဖတ္တိယာ သမာရဒ္ဓံ သမ္မန္တယိံသု၊ “ပါဠိဘာသာယ ဌိတာနံ ပိဋကာနံ သုဝိသောဓိတံ ဝိသောဓိတမူလပဋိလာဘာပနံ၊ တေသံ သုဝိသောဓိတပါဠိပိဋကာနံ သုဒ္ဓမြန်မာဘာသာယ ပရိဝတ္တာပနံ၊ လောကိယစာရိတ္တပဋိသံယုတ္တဗုဒ္ဓပါဝစနတော မြန်မာဇာတိကာ နုလောမံ ဝိစိနိတွာ ဘာဂါနုဘာဂံ ပရိစ္ဆိန္ဒိတွာ ဂတဋ္ဌာနံ ဝိညာပနညယေန နာနာဂန္ထေ ကာရာပေတွာ တတ္ထ တတ္ထ ဗျာပနံ”တိ။

တတော တေသု ဌာနေသု ပထမဿ နိပ္ဖတ္တိယာ တံ တံ နဝရံ ပေသေတွာ နာနာနေကာယိကမဟာထေရာနံ တံ ကာရဏံ အာရောစာပေသုံ၊ တေပိ မဟာထေရာ ရန်ကုန်နဂရေ ဒွါဒသာဓိကတိသတေကသဟဿေ ကတ္တိကမာသဿ ကာဠပက္ခေ သတ္တမဒွါဒသမဒိဝသေသု ဒွိက္ခတ္တုံ သန္နိပတိတွာ ဝိုင်အမ်ဘီ့အေသာမိတိကာနုမတိယာ ပိဋကတ္တယဝိသောဓနာယ သန္နိဋ္ဌာနမကံသု။

### ကော ပန တေ မဟာထေရာ

အာယသ္မာ စ စာရိန္ဒော ဇာတိယာ တေအသီတိကဝဿိကော ဟသ်ာတနဂရေ ဘုရားကြီးအာရာမေ ဒွါရဝါဒီနိကာယဿ ဥက္ကဋ္ဌမဟာနာယကဘူတော။

အာယသ္မာ စ ဂုဏာဘိဝံသော ဇာတိယာ အဋ္ဌသတ္တတိဝဿိကော ဓနုဖြူနဂရေ သဒ္ဓမ္မဇောတိကာရာမေ ဒွါရဝါဒီနိကာယဿ နာယကဘူတော။

အာယသ္မာ စ ရေဝတော ဇာတိယာ သတ္တသတ္တတိဝဿိကော မန္တလေးနဂရေ မိုးကောင်းအာရာမေ ညောင်ရမ်းဆရာတော် ဣတိ ဝိဿုတော။

အာယသ္မာ စ သုန္ဒရော ဇာတိယာ ဒွါသတ္တတိဝဿိကော ပခုက္ကူနဂရေ မဟာဝိသုတာရာမေ မဟာနာယကဘူတော။

အာယသ္မာ စ သူရိယော ဇာတိယာ ဒွါသတ္တတိဝဿိကော မန္တလေးနဂရေ မစိုးရိမ်အာရာမေ မဟာနာယကဘူတော။

အာယသ္မာ စ နန္ဒိမာ ဇာတိယာ ဒွါသတ္တတိဝဿိကော မန္တလေးနဂရေ ခင်မကန်အာရာမေ စံကျောင်းဆရာတော် ဣတိ ဝိဿုတော။

အာယသ္မာ စ နန္ဒဝံသော ဇာတိယာ အဋ္ဌသဋ္ဌိဝဿိကော ပခုက္ကူနဂရေ မဟာဝိသုတာရာမေ မဟာနာယကဘူတော။

အာယသ္မာ စ ကလျာဏော ဇာတိယာ အဋ္ဌသဋ္ဌိဝဿိကော ညောင်တုန်းနဂရေ ရွှေဟင်္သာအာရာမေ မဟာနာယကဘူတော။

အာယသ္မာ စ အရိယော ဇာတိယာ စတုသဋ္ဌိဝဿိကော ညောင်လေးပင်နဂရေ အရညာရာမေ မဟာနာယကဘူတော။

အာယသ္မာ စ ဣန္ဒာသဘော ဇာတိယာ စတုသဋ္ဌိဝဿိကော မန္တလေးနဂရေ ဒက္ခိဏာရာမေ ဟံသာဝတီဆရာတော် ဣတိ ပါကဋော မဟာနာယကဘူတော။

အာယသ္မာ စ ကောဏ္ဍညော ဇာတိယာ စတုသဋ္ဌိဝဿိကော ရန်ကုန်နဂရေ ဘုရားကြီးအာရာမေ မဟာနာယကဘူတော။

အာယသ္မာ စ နာရဒေါ ဇာတိယာ တေသဋ္ဌိဝဿိကော မန္တလေးနဂရေ ဒက္ခိဏာရာမေ မဟာနာယကဘူတော။

အာယသ္မာ စ ဥက္ကံသာဘိဝံသော ဇာတိယာ ဒွါသဋ္ဌိဝဿိကော မန္တလေးနဂရေ ဒက္ခိဏာရာမေ ဆရာတော် ဦးကြယ် ဣတိ ပါကဋော မဟာနာယကဘူတော။

အာယသ္မာ စ ဉာနာဘိဝံသော ဇာတိယာ ဒွါသဋ္ဌိဝဿိကော မန္တလေးနဂရေ မဟာဝိသုဒ္ဓါရာမေ မြောင်းမြဆရာတော် ဣတိ ပါကဋောတိ။

ဧတေ စ ပန မဟာထေရာ ပုနပိ မန္တလေးနဂရေ ယေဘုယျေန ပရိယတ္တိသာသနဟိတမ္ဗာစရိယောတိ လဒ္ဓေါပါဓိကေ ဓမ္မာစရိယတ္ထေရေ ဥစ္စိနိတွာ တေဟိ သဒ္ဓိံ တဒ္သိုယေဝ သံဝစ္ဆရေ မာဂသိရမာသဿ ကာဠပက္ခပဥ္စမိယံ သန္နိပါတမကံသု၊ တတ္ထေဝ သိလာရုဠှပိဋကေဟိ သံသန္ဒနတ္ထာယ တေသံ ထေရာနံ တံ တံ ပိဋကပေါတ္ထကံ သမ္ပဋိစ္ဆာပေသုံ။

ကထံ...

သကလံ ဝိနယပိဋကံ ဒက္ခိဏာယ ဒိသာယ ဒက္ခိဏာရာမေ, ဆီဘန်နီအာရာမေ, နန္ဒိသေနာရာမေ, ထီးလင်းအာရာမေ, ကုသိနာရာမေ ထေရာနုထေရာနံ သမ္ပဋိစ္ဆာပေသုံ။

ဒီဃနိကာယံ စေဝ အဘိဓမ္မပိဋကေ ဟေဋ္ဌာပဥ္စပကရဏာနိ စ ပစ္ဆိမာယ ဒိသာယ မိုးကောင်းအာရာမေ, ခင်မကန်အာရာမေ, ဆင်တဲအာရာမေ, ရွှေပြည်အာရာမေ, ခေမာသိဝံအာရာမေ, ချမ်းသာကြီးအာရာမေ, ထီးလင်းအာရာမေ, စကုအာရာမေ, ငွေးချိုအာရာမေ, မေဃဝတီအာရာမေ, ပုဂံအာရာမေ ထေရာနုထေရာနံ သမ္ပဋိစ္ဆာပေသုံ။

ယမကပဋ္ဌာနပကရဏာနိ ပန ပစ္ဆိမာယ ဒိသာယ မဟာဝိသုဒ္ဓါရာမေ, မစိုးရိမ်အာရာမေ, ဝေဃံဘုံသာအာရာမေ, ဝိဇ္ဇာလင်္ကာရအာရာမေ, အဘယာရာမေ, ဖောင်တော်ဦးအာရာမေ ထေရာနုထေရာနံ သမ္ပဋိစ္ဆာပေသုံ။

ဧဝံ ပိဋကေသု သမ္ပဋိစ္ဆာပိတေသု တေသံ ပိဋကသံသန္ဒနကာနံ ဖာသုဘာဝါယ မန္တလေးနဂရေ ပရိယတ္တိသာသနဟိတသာမိတိကာ စေဝ ပုရတ္ထိမာယ ဒိသာယ ဗုဒ္ဓဝေယျာဝစ္စသာမိတိကာ စ ဝိုင်အမ်ဘီအေမဟာသမိတိယာ ဂန္ထပသာရဏဋ္ဌာနေ အန္တော ဘာရနိတ္ထရကော စ မဟုဿာဟေန ပစ္စယေဟိ စေဝ ကာယဝေယျာဝစ္စေန စ ဥပထမ္ဘနမကရိံသု။

ပိဋကသံသန္ဒနကာပိ ထေရာ အတ္တနော သရီရခေဒံ အဂ္ဂလေပက္ခိတွာ ဂန္ထဝါစနကမ္မဥ္စ နိက္ခိပိတွာ အနုဒိနံ ကုသိုလ်တော်စေတီယဿ အန္တောအာရာမံ ဂန္တွာ တတ္ထ ဌိတာနံ ဣဋ္ဌကဂူဟာနံ အန္တော ဌိတသိလာ ၆၉
ဖလကာရုဠှပိဋကေဟိ ပေါတ္ထကပိဋကာနိ သံသန္ဒေသုံ။

ဇဝံ သံသန္တိတာနိပိ တာနိ ပုန ပဋ္ဌမသံဂီတိကာလေ ကတာသရီရပေါတ္ထကေသု ဌိတပါဠိပါဠေဟိ စေဝ အဋ္ဌကထာဋီကာပါဠေဟိ စ လက်ာအယုဋ္ဌာဒိရဋ္ဌတော အာဂတပါဠိပေါတ္ထကေဟိ စ ဗျာကရဏေဟိ စ သမာယေသုံ၊ တာနိ စ န သကလပိဋကာနိ၊ အထ ခေါ အစုနာ "ဝါစနာမဂ္ဂေါတိ" ပညာတာနိ ပါဠိဝစနဘူတာနိ ဝိနယပိဋကဒီဃနိကာယအဘိဓမ္မပိဋကာနိယေဝ ပေါတ္ထကဂဏနာယ ဝိသပမာဏာနိ။

ဇဝံ သကလနေကာယိကမဟာထေရေဟိ စေဝ အနုထေရေဟိ စ မဟုဿာဟေန ဝိသောဓိတာနိ ပါဠိပိဋကာနိ ဝိုင်အမ်ဘီအေသမိတိယာ သုလဒ္ဓါနိ၊ တတော ပရံ သကလမြန်မာရဋ္ဌေ မဟာမဏ္ဍာဓိပတိဘူတေန ဦးနုနာမေန စေဝ သတိုးသီရိသုဓမ္မာတိ အနုဂ္ဂဟိတဥပါဓိကေန ဝေါဟာရိကမဟာမဏ္ဍာဓိပတိဘူတေန ဦးသိမ်းမောင်ဂုယေန စ ဆဋ္ဌသံဂီတိယံ ဥပကာရာယ အာယာစိတာ ဝိုင်အမ်ဘီအေ သာမိတိကာ တာနိ ပါဠိပေါတ္ထကာနိ တေဠသာဓိကတိသတေကသဟဿေ ပေါဋ္ဌပဒမာသဿ ဇုဏှပက္ခအဋ္ဌမိယံ ဗုဒ္ဓသာသနသမိတိယာ နိယျာတေသုံတိ။

(ဝိုင်အမ်ဘီအေ)
ဗုဒ္ဓဘာသာကလျာဏယုဝသမိတိ
သတ္တသတ္တတိ ရေကျော်အဠသေ
ရန်ကုန်နဂရေ
ရဋ္ဌသမဝါယမြန်မာရဋ္ဌေ။

# "အေးအေးမြမြ ဖြစ်ပါစေ" ဗုဒ္ဓဘာသာကလျာဏယုဝအသင်းကြီး၏ ကောင်းစွာသုတ်သင်အပ်ပြီးသော ပိဋကတ်တော်များကို နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ကြီးအား လွှဲအပ်ခြင်း

သစ္စာလေးချက် တရားစက်ကို ခွဲဖျက်ကုန်စင် သိမြင်တော်မူသော ဘုရားမြတ်စွာ၏ သာသနာတော်ကို ကော်ရော်ဆည်းကပ် လေးမြတ်ရင်းရှိကြကုန်သော အမျိုးကောင်းသား လူရွယ်လူငယ်များတို့သည် သာသနာတော်နှစ် ၂၄၅၀ ပြည့်မြောက်, ကောဇာသက္ကရာဇ် ၁၂၆၈ ခုနှစ်သို့ရောက်သောအခါ "ဝိုင်အမ်ဘီအေ" ဟူသော နာမည်ဖြင့် ဗုဒ္ဓဘာသာကလျာဏယုဝအသင်းကြီးကို စတင်တည်ထောင်ခဲ့ကြပါသည်။

## အသင်းကြီး၏ ယုံကြည်ချက်

ဤအသင်းကြီးသည်ပင် မြန်မာတိုင်းသူပြည်သားတို့ကို တိုင်းတစ်ပါးတို့လက်အောက်မှ လွတ်မြောက်သည့်တိုင်အောင် မျက်စိဖွင့်ပေးခဲ့ပါသည်၊ လွတ်လပ်ခွင့်ရပြီးရာ ယခုအခါ၌လည်း ပြည်ထောင်စုမြန်မာနိုင်ငံတော်သူ နိုင်ငံတော်သားတို့၏ မျိုးရိုးဇာတိအားဖြင့် အဆင့်အတန်းမနိမ့်ကြောင်းကို ထင်ရှားပြဖို့ရန် အခြေခံစစ်စစ်ကို လိုက်လံရှာဖွေကြကုန်သော အသင်းသားတို့သည် "ကမ္ဘာပေါ်တွင် အထက်တန်းစား ထင်ရှားပြီးသော လူမျိုးတိုင်း၏ ယဉ်ကျေးမှုကို ထိုသူတို့ လေ့လာအပ်သော ကျမ်းစာတို့ကသာလျှင် ပြထားကြောင်း"ကို ကောင်းကောင်းကြီး တွေ့မြင်ကြရပါသည်။

မြန်မာအမျိုးသား အမျိုးသမီးများမှလည်း "ကိုယ်နှုတ်စိတ်အားဖြင့် ယဉ်ကျေးသူများ ဖြစ်ကြပါပေသည်"ဟု ဤတိုင်းနိုင်ငံ ရောက်ဖူးသော တိုင်းတစ်ပါးသားတို့၏ အချီးမွမ်းကို ခံကြရပါသည်၊ "ထိုယဉ်ကျေးမှုကိုလည်း ဗုဒ္ဓမြတ်စွာ၏ ပိဋကတ်ကျမ်းစာတို့ကပင် ပြခဲ့သည်"ဟု ရိုးသားသောစိတ်ဖြင့် ယုံကြည်နေကြပါသည်၊ မှန်ပါသည်၊ ထိုဗုဒ္ဓမြတ်စွာ၏ ပိဋကတ်ကျမ်းစာတို့တွင် မင်္ဂလသုတ်ဒေသနာကျမ်းစာတစ်ခုတည်သည်ပင် ကိုယ်နှုတ်စိတ်၏ ယဉ်ကျေးမှုပြနိုင်ကြောင်းကို လေ့လာသူတိုင်း ဝန်ခံကြရပါလိမ့်မည်။

## အလုပ်စတင်ဆောင်ရွက်ခြင်း

ဤသို့လျှင် “မိမိတို့ တိုင်းသူပြည်သား လူအများ ယဉ်ကျေးမှု၏ အခြေခံသည် ဗုဒ္ဓမြတ်စွာ၏ ပိဋကတ်ဒေသနာတော်သာ ဖြစ်ပေသည်”ဟု ကောင်းစွာသိရှိကြသဖြင့် ကောဇာသက္ကရာဇ် ၁၃၁၂ ခုနှစ် ဝါခေါင်လဆုတ် ၁၂ ရက်နေ့၌ အသင်းကြီး၏ အမှုဆောင် အစည်းအဝေးကို စည်းဝေးပြီးလျှင် အောက်ပါအချက်သုံးချက်ကို အပြီးတိုင် ရွက်ဆောင်ဖို့ရာ သဘောတူ ဆုံးဖြတ်ကြပါသည်။

၁။ ပါဠိဘာသာဖြင့် ကောင်းစွာသုတ်သင်အပ်ပြီးသော ပိဋကတ်တော်စာမူကို ရရှိရေး၊

၂။ ထိုမူကောင်း မူမှန်ဖြစ်သော ပါဠိပိဋကတ်တော်ကို မြန်မာဘာသာသက်သက်ဖြင့် ပြန်ဆိုရေး၊

၃။ ကိုယ်ကျင့်တရားနှင့် စပ်လျဉ်း၍ မြန်မာလူမျိုးများနှင့် သင့်လျော်သော ဗုဒ္ဓမြတ်စွာ၏ ဩဝါဒဒေသနာတော်ကို ရွေးချယ်ပြီးလျှင် အဆင့်အတန်း အသီးသီး ခွဲခြား၍ မြန်မာဘာသာ ကျမ်းစာအုပ် ဖြန့်ချိရေး။

## ဂိုဏ်းပေါင်းစုံဆရာတော်များအား လျှောက်ခြင်း

ထိုဆုံးဖြတ်ချက်အရ အချက်ကြီးသုံးချက်တို့တွင် ပထမအရင်းခံ ပါဠိပိဋကတ်တော် မူမှန်ရရှိရေးဖြစ်သော အချက်ကို ပြီးမြောက်စေရန် ထိုထိုမြို့သို့ စေလွှတ်၍ ဂိုဏ်းပေါင်းစုံ ဆရာတော်ကြီးများကို လျှောက်စေကြပါသည်၊ ထိုလျှောက်ထားချက်အရ ဆရာတော်ကြီးများလည်း ရန်ကုန်မြို့၌ ကောဇာသက္ကရာဇ် ၁၃၁၂ ခု တန်ဆောင်မုန်းလဆုတ် ၇ ရက်နေ့၌ တစ်ကြိမ်, ၁၂ ရက်နေ့၌တစ်ကြိမ် ဤသို့နှစ်ကြိမ်တိုင်တိုင် စည်းဝေးတော်မူကြပြီးလျှင် ဝိုင်အမ်ဘီအေ အသင်းသားတို့၏ လိုအင်ဆန္ဒအတိုင်း ပိဋကတ်တော်ကို သုတ်သင်ချီးမြှင့်ကြဖို့ရန် ထက်သန်သောဆန္ဒဖြင့် ဆုံးဖြတ်တော်မူကြပါသည်။



သန့်ရှင်းသော ပိဋကတ်မူအတွက် လှုံ့လစိုက်ကြသော ဝိုင်အမ်ဘီအေအဖွဲ့ဝင်လူကြီးများ

နောက်တန်း (ဝဲမှယာသို့) – ဦးရွှေမောင်, ဦးထွန်းတင်, ဦးစိန်, ဦးသာမြတ်, ဦးသက်ထွန်း, ဦးအုန်းဖေ, ဦးကွန်းဇော်, ဦးဘထွား, ဦးလှတင်, ဦးလှမောင်။

ရှေ့တန်း (ဝဲမှယာသို့) – ဦးအုန်းရွှေ, ဦးထိန်ဝင်း, ဦးလှသိန်း, ဦးဘကျော်, ဦးကျော်မင်း, ဦးသာခင်, ဦးဘရှိ, ဦးကျော်ထွင်။

## သဘောတူဆုံးဖြတ်ကြသောဆရာတော်ကြီးများမှာ

| | | | သက်တော် | သိက္ခာ |
|---|---|---|---|---|
| ၁။ | ဦးစာရိန္ဒ, | ဒွါရဂိုဏ်းဆရာတော်, ဘုရားကြီးတိုက်, ဟင်္သာတမြို့ | ၈၃ | ၆၄ |
| ၂။ | ဦးဂုဏာဘိဝံသ, | ဒွါရဂိုဏ်းဆရာတော်, သဒ္ဓမ္မဇောတိကာရာမ | ၇၈ | ၅၈ |
| ၃။ | ဦးရေဝတ, | ညောင်ရမ်းဆရာတော်, မိုးကောင်းတိုက်, မန္တလေးမြို့ | ၇၇ | ၅၈ |
| ၄။ | ဆရာတော် ဦးသုန္ဒရ, | မဟာဝိသုတာရာမတိုက်, ပခုက္ကူမြို့ | ၇၂ | ၅၂ |
| ၅။ | ဦးသူရိယ, | မစိုးရိမ်ဆရာတော်, မန္တလေးမြို့ | ၇၂ | ၅၂ |
| ၆။ | ဆရာတော်ဦးနန္ဒဝံသ, | မဟာဝိသုတာရာမတိုက်; ပခုက္ကူမြို့ | ၆၈ | ၄၈ |
| ၇။ | ဦးကလျာဏ, | ရွှေဟင်္သာဆရာတော်, ညောင်တုန်းမြို့ | ၆၈ | ၄၈ |
| ၈။ | ဦးနန္ဒိမာ, | ခင်မကန်စံကျောင်းဆရာတော်, မန္တလေးမြို့ | ၇၂ | ၅၂ |
| ၉။ | ဦးကောဏ္ဍည, | ဘုရားကြီးဆရာတော်, ရန်ကုန်မြို့ | ၆၄ | ၄၅ |
| ၁၀။ | ဦးကုန္ဒာသဘ, | ဟံသာဝတီဆရာတော်, ဒက္ခိဏာရာမတိုက်, မန္တလေးမြို့ | ၆၄ | ၄၄ |
| ၁၁။ | ဦးအရိယ, | တောရကျောင်းဆရာတော်, ညောင်လေးပင်မြို့ | ၆၄ | ၄၅ |
| ၁၂။ | ဆရာတော် ဦးနာရဒ, | ဒက္ခိဏာရာမတိုက်, မန္တလေးမြို့ | ၆၃ | ၄၃ |
| ၁၃။ | ဦးဉာနာဘိဝံသ, | မြောင်းမြဆရာတော်, မဟာဝိသုဒ္ဓါရုံတိုက်သစ်, မန္တလေးမြို့ | ၆၃ | ၄၃ |
| ၁၄။ | ဆရာတော် ဦးကြယ်, | ဒက္ခိဏာရာမတိုက်, မန္တလေးမြို့ | ၆၂ | ၄၂ |

ထိုဆရာတော်ကြီးများသည် ထပ်မံ၍ များသောအားဖြင့် မန္တလေးမြို့ ပရိယတ္တိသာသနဟိတဓမ္မာစရိယ ဘွဲ့ထူးရသော စာချဆရာတော်များကို ရွေးချယ်ပြီးလျှင် ထိုဆရာတော်များနှင့်အတူ မန္တလေးမြို့၌ **ထိုနှစ်** နတ်တော်လဆုတ် ၅ ရက်နေ့၌ စည်းဝေးကြပြန်ပါသည်။

ထိုအစည်းအဝေး၌ပင် ပါဠိပိဋကတ်တော်များကို ကျောက်စာတော်မူနှင့် တိုက်ဆိုင်ဖို့ရန် **ထိုထို** ဆရာတော်များထံ ထိုထိုကျမ်းစာအုပ်များကို ခွဲဝေအပ်နှံလိုက်ကြပါသည်။

ခွဲဝေပုံမှာ...ဝိနည်းငါးကျမ်းကို တောင်ပြင် ဒက္ခိဏာရာမဘုရားကြီးတိုက်, ဆီးဘန်နီတိုက်, နန္ဒိသေနာရာမတိုက်, ထီးလင်းတိုက်, ကုသိနာရုံတိုက် ဆရာတော်များထံ အပ်နှံကြပါသည်။

သုတ်သုံးကျမ်းနှင့်ဓမ္မသင်္ဂဏီ, ဝိဘင်း, ဓာတုကထာ, ပုဂ္ဂလပညတ်, ကထာဝတ္ထုတို့ကို အနောက်ပြင် မိုးကောင်းတိုက်, ခင်မကန်တိုက်, ဆင်တဲတိုက်, ရွှေပြည်တိုက်, ခေမာသီဝံတိုက်, ချမ်းသာကြီးတိုက်, ထီးလင်းတိုက်, စကုတိုက်, ဂွေးချိုတိုက်, မေဃဝတီတိုက်, ပုဂံတိုက် ဆရာတော်များထံ အပ်နှံကြပါသည်။

ယမိုက်နှင့် ပဋ္ဌာန်းကို အနောက်ပြင် မဟာဝိသုဒ္ဓါရုံတိုက်, မစိုးရိမ်တိုက်, ဝေယံဘုံသာတိုက်, ဝိဇ္ဇာလင်္ကာရတိုက်, အဘယာရာမတိုက်, ဖောင်တော်ဦးတိုက် ဆရာတော်များထံ အပ်နှံကြပါသည်။

ဤနည်းအားဖြင့် ပိဋကတ်တော်စာအုပ်များကို အပ်နှံပြီးသောအခါ ထိုပိဋကတ်တော်စာမူတိုက်ဆိုင်မည့် ဆရာတော်များ၏ အရာရာ၌ ချမ်းသာတော်မူစေခြင်းငှာ ပရိယတ္တိသာသနဟိတအသင်းလူကြီးများနှင့် အရှေ့ပြင် ဗုဒ္ဓဝေယျာဝစ္စအသင်းလူကြီးများသည် ဝိုင်အမ်ဘီအေ အကျိုးဆောင် ဦးထိန်ဝင်းနှင့်အတူ လိုအပ်သော ပစ္စည်းတို့ဖြင့်လည်းကောင်း, ဝေယျာဝစ္စဆောင်ရွက်ခြင်းဖြင့်လည်းကောင်း ကြီးစွာသော အားထုတ်ခြင်းဖြင့် ဝိုင်းဝန်းကူညီကြပါသည်။

ပိဋကတ်တော်တိုက်ဆိုင်သော ဆရာတော်များလည်း ကိုယ်၏ ပင်ပန်းခြင်းကို လျစ်လျူရှုပြီးလျှင် နေ့စဉ် စာချမှုကိုပင် ခေတ္တ ဆိုင်းငံ့တော်မူလျက် နေ့စဉ် ကုသိုလ်တော်အာရာမ်အတွင်းသို့ ကြွ၍ လိုဏ်ဂူအတွင်း၌ တည်ရှိသော ကျောက်စာမူနှင့် တိုက်ဆိုင်တော်မူကြသည်မှာ လွန်စွာ အားရဖွယ် ဖြစ်ပါပေသည်။

ဤသို့ တိုက်ဆိုင်ပြီးသော စာများကို တစ်ဖန် ပဉ္စမသင်္ဂါယနာတင်စဉ်က စာမူဖြစ်သော ပေစာတို့နှင့်လည်းကောင်း၊ အဋ္ဌကထာ ဋီကာတို့နှင့်လည်းကောင်း၊ သီဟိုဠ် ယိုးဒယားများမှလာသော ပါဠိစာအုပ်တို့နှင့်လည်းကောင်း ညှိနှိုင်းကြပြန်ပါသည်၊ ထိုပိဋကတ်တော်များသည် ယခုအခါ ချရိုးဟု အသိအမှတ်ပြုအပ်သော ဝိနည်း ငါးကျမ်း၊ ဒီဃနိကာယ်သုတ် သုံးကျမ်းနှင့် အဘိဓမ္မာ ခုနစ်ကျမ်း ဖြစ်ပါသည်။

## နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့သို့ လွှဲအပ်ခြင်း

ဤသို့လျှင် ဝိုင်အမ်ဘီအေ အသင်းကြီးသည် နိုင်ငံတော်တစ်ဝှမ်းလုံးရှိ ဂိုဏ်းပေါင်းစုံဆရာတော်များနှင့် စာချဆရာတော်များ ပါဝင်၍ ကြီးစွာသော လုံ့လဖြင့် သုတ်သင်အပ်သော ပိဋကတ်တော်စာအုပ်ရေ ၂၀ ကို ကောင်းစွာ ရရှိခဲ့ပါသည်၊ ထိုသို့ ရရှိပြီးနောက် ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ ဝန်ကြီးချုပ်ဖြစ်သော ဦးနုနှင့် တရားဝန်ကြီးချုပ် သတိုးသီရိသုဓမ္မ ဦးသိမ်းမောင်တို့သည် ဆဋ္ဌသင်္ဂါယနာတင်ရာတွင် ကျေးဇူးများစေခြင်းအကျိုးငှာ ထိုပိဋကတ်ကျမ်းစာအုပ်များကို မေတ္တာရပ်ခံအပ်သည် ဖြစ်၍ ကျွန်တော်များ၏ အသင်းသား အားလုံးပင် ဝမ်းမြောက်ဝမ်းသာ သဘောတူညီစွာဖြင့် နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့သို့ ဆက်လက်ဆောင်ရွက်ရန် လွှဲအပ်ကြပါသည်။

# ကြို့တောင့်ကြို့ခဲ ထူးကဲလှသော ဆဋ္ဌသင်္ဂါယနာတင်ပွဲတော်

## သင်္ဂါယနာများ တင်ထားခဲ့ခြင်း

ပဌမ၊ ဒုတိယ၊ တတိယ သင်္ဂါယနာသုံးတန်ကို အိန္ဒိယနိုင်ငံတွင် ရဟန္တာမထေရ် အရှင်မြတ်ကြီးတို့ နှုတ်တော်ဖြင့် ရွတ်၍ သင်္ဂါယနာတင်တော်မူခဲ့ကြ၏၊ စတုတ္ထသင်္ဂါယနာကို သီဟိုဠ်(သီရိလင်္ကာနိုင်ငံ)တွင် မထေရ်အရှင်မြတ်ကြီးတို့က "နောင်တစ်ချိန်၌ နှုတ်ဖြင့် မဆောင်ရွက်နိုင်ကြပါလျှင် ပိဋကတ်တွေ ကွယ်ပျောက်ကုန်နိုင်စရာရှိသည်"ဟု မျှော်ခေါ် စိုးရိမ်တော်မူကြ၍ ပေထက်မှာ ရေးသားလျက် သင်္ဂါယနာတင်တော်မူခဲ့ကြသည်၊ ပဉ္စမသင်္ဂါယနာကိုကား... ထို့ထက် ခိုင်မာအောင်ဟု ရည်ရွယ်တော်မူကြကာ ပိဋကတ်တို့ကို ကျောက်ချပ်ပြားပေါ်၌ ရေးသားထွင်းထုလျက် သင်္ဂါယနာ တင်တော်မူခဲ့ကြ၏။

ထိုပဉ္စမသင်္ဂါယနာကို ၁၂၃၃ ခု တန်ခူးလပြည့်ကျော် ၁၁ ရက်၊ နှစ်ဆန်း ၁ ရက် စနေနေ့မှစတင်၍ မြန်မာပြည် မန္တလေးမြို့ကြီးများတွင် မင်းတုန်းမင်းဘုရင်၏ အထောက်အပံ့ဖြင့် တင်တော်မူခဲ့ကြပါသည်။

ဤသို့လျှင် ပိဋကတ်တော်တို့မှာမကွယ်မပျောက်နိုင်၊ ခိုင်မာသော အခြေအနေသို့ ရောက်ကြရသော်လည်း အနေအထားတို့မှာကား (ပေစာတို့မှ ဆင်းသက် ကူးယူလာခဲ့ရသည်ဖြစ်၍) ဖြတ်ခြင်း၊ ရပ်ခြင်း၊ ခွဲခြားခြင်းမရှိဘဲ ပြစ်ခဲထူပိန်းကပ်ရပ်နေအောင် ကျောက်ချပ်တို့၌ ရေးသားထားကြလေသည်၊ ထိုမှ တစ်ဆင့် နှောင်းခေတ်ပုဂ္ဂိုလ်တို့က ကူးယူ၍ ပုံနှိပ်ကြရာတွင်လည်း ထူးထူးခြားခြား ပြင်ဆင်ခြင်း၊ ခွဲပိုင်းခြင်းမရှိ။ ပကတိအတိုင်းပင် ထူပြစ်ပြစ်တွေ ရိုက်နှိပ်ထားတတ်ကြလေသည်။

ဤကိစ္စအတွက် ဆရာတော် အရှင်ဇနကာဘိဝံသမှာ ဘဝင်မကျ အားမရနိုင်အောင် ဖြစ်နေရပါ၏၊ တစ်နိုင်ငံလုံးနှင့်ချီ၍ ပြုပြင်ရမည်ဖြစ်ခြင်းကြောင့်လည်း မလွယ်ကူနိုင်အောင် ရှိနေရတော့သည်၊ သို့ဖြစ်၍ မိမိစွမ်းနိုင်သမျှ မိမိစာအုပ်ကလေးများကိုသာ ကြိုးစား၍ နမူနာပြု သပ်သပ်ရပ်ရပ်ဖြစ်အောင် ပြုပြင် ရိုက်နှိပ်နေရတော့သည်။

## ဆဋ္ဌသင်္ဂါယနာတင်ဖို့ကောင်း

ထို့ကြောင့် လွတ်လပ်ရေးရသောအခါ နိုင်ငံတော်အစိုးရမှာ အခွင့်အလမ်းသာပါက (၆)ကြိမ်မြောက် **ဆဋ္ဌသင်္ဂါယနာ**တင်ပွဲကြီး ကျင်းပပြီးလျှင် သာသနာတော် သန့်ရှင်းရေးတို့အတွက် ဆောင်ရွက်သင့်ကြောင်း စာဖြင့် ရေးသား၍ ဆရာတော် အရှင်ဇနကာဘိဝံသက အကြံဉာဏ်များပေးခဲ့သည်၊ ဤသဘောတရားများကို လွတ်လပ်ရေးမရခင်ကပင် ကြိုတင်၍ရေးသားခဲ့သော ဆရာတော်၏ **အနာဂတ်သာသနာရေး**ကျမ်းစာအုပ်တွင် အောက်ပါအတိုင်း ရေးသားထားလေသည်။

ဆဋ္ဌသင်္ဂါယနာတင် အလုပ်ကို အစိုးရကိုယ်တိုင်ကသဘောကျပါမူ(မင်းတုန်းမင်းတရားကြီး၏ ကျောက်ပြားပေါ်တွင် အက္ခရာတင်ကာ ပဥ္စမသင်္ဂါယနာတင် အမည်ခံသကဲ့သို့) ထို့အတူ နိုင်ငံတစ်ဝှမ်းလုံးမှ အရေးပါအရာရောက်သည့် ဆရာတော်ကြီးများအား ပိဋကတ်တို့ကိုကြီးကြပ်ပြင်ဆင်စေကာ ဆဋ္ဌသင်္ဂါယနာတင်ရန် စီမံစဉ်းစားထားသင့်ကြ၏။

ထို့ပြင် မြန်မာနိုင်ငံ၌ ပိဋကတ်ကျမ်းစာ ပုံနှိပ်ထားပုံများသည် ရှေးခေတ်က ပေစာတို့ကို ကူး၍ ရိုက်နှိပ်ခဲ့ကြရသောကြောင့် အဖြတ် အခွဲ အချဲ အခြားမရှိ ပြွတ်သိပ်လျက်ရှိနေ၏၊ စာအုပ်ချုပ်ပုံ ဖုံးပုံမှစ၍ ပြုပြင်ဖွယ်တွေ များစွာရှိ၏၊ ပြုပြင်ကြရပေလိမ့်မည်၊ ထိုမှတစ်ပါး တစ်ကြိမ်တစ်ခါမျှ မရိုက်နှိပ်ရဘူးသေးသော (ပေစာဖြင့်ရှိသော) အဋ္ဌကထာ ဋီကာများကိုလည်း ရိုက်နှိပ်ရပေဦးမည်၊ အနာဂတ်ကာလ၌ စာသင်တိုက်တိုင်းပင် ပိဋကတ်တိုက်လည်း တည်ရှိရတော့မည်ဖြစ်၍ နည်းသစ်ဖြင့် ရိုက်နှိပ်အပ်သမျှ ပါဠိတော်, အဋ္ဌကထာ, ဋီကာများကို ထားနိုင်ရန် ဆိုင်ရာဂေါပကအဖွဲ့က တာဝန်ယူကြရပါမည်"။

## ပြန်လည်မွမ်းမံပြုပြင်ရေးများ

ဤသို့ စသည်ဖြင့် ပြင်သင့်ပြင်ထိုက်သော ကိစ္စတို့ကို စောစောကပင် ကြိုတင်၍ ဆရာတော်က သတိပေး ရေးသားထားပါသည်၊ လွတ်လပ်ရေးရလျှင် နိုင်ငံအတွင်း ယိုယွင်းပျက်စီးခဲ့ရသော အရာဟူသမျှတို့ကို ပြုပြင်ကြရတော့မည်၊ ထိုအချိန်တွင် သာသနာဘက်၌ ပြုပြင်စရာဟူသမျှကိုလည်း ပြုပြင်နိုင်ဖို့ရန် ကြိုတင် ညွှန်ပြထားခြင်း ဖြစ်ပေသည်၊ ထို့ကြောင့်လည်း သက္ကရာဇ် ၁၃၀၉ ခု ပြာသိုလပြည့်ကျော် ၉ ရက်နေ့၌ ပြည်ထောင်စုမြန်မာနိုင်ငံတော်အချုပ်အခြာလွတ်လပ်ရေးရပြီးနောက် တစ်နိုင်ငံလုံးတွင် ယိုယွင်းသမျှ ပြုပြင်ရေးတွေလုပ်ကြ, ပြန်လည်ထူထောင်ရေးတွေ လုပ်ကြရတော့၏။

ထိုအခါ ဘာသာ သာသနာရေးဘက်တွင်လည်း ထိထိမိမိ အရာရောက်ရောက် ချီးမြှောက်လိုကြသဖြင့် (ဆရာတော် အရှင်ဇနကာဘိဝံသ ကြိုတင်ညွှန်ပြသည့်အတိုင်း) ၁၃၁၆ ခုနှစ် ကဆုန်လပြည့်နေ့တွင် စတင်၍ ဆဋ္ဌသင်္ဂါယနာတင်ပွဲကြီး ခြိမ့်ခြိမ့်သဲ ဆင်နွဲကျင်းပ ပူဇော်ကြတော့သည်။

## ဆဋ္ဌသင်္ဂါယနာအတွက် ပထမဦးဆုံးအစည်းအဝေး

### ပဓာနနာယကဆရာတော်များ

ဆဋ္ဌသင်္ဂါယနာတင်ပွဲကြီး အောင်မြင်ပြီးမြောက်ဖို့ ကိစ္စဆိုသည်မှာ လွယ်ကူသော အရာ မဟုတ်ချေ၊ တိုင်းပြည်မှာ ငွေရှိရုံနှင့် မပြီး၊ နိုင်ငံတော်အစိုးရက တန်ခိုးရှိ၍ အာဏာထက်နေရုံမျှဖြင့်လည်း မရ၊ နာယက ဆရာတော်ကြီးများက လက်မခံကြပါမူ ဆဋ္ဌသင်္ဂါယနာ ဖြစ်လာဖို့ရန် မလွယ်ကူချေ၊ စင်စစ်မှာ..., ဆရာတော်ကြီးများကလည်း သဘောပါ, ဒါယကာ ဒါယိကာမတို့၏ အကူအညီ (သို့မဟုတ်) အစိုးရ၏ အကူအညီလည်း ရပါမှ ထမြောက်အောင်မြင်နိုင်သည်၊ ထို့ကြောင့် လူဘက် ရှင်ဘက်

နှစ်ဖက်စုံညီဖို့အရေး ဆွေးနွေးကြပြီးလျှင် ဦးစွာ ပထမ အဂ္ဂမဟာပဏ္ဍိတ ဆရာတော်ဘုရားကြီးများကိုချည်း နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့က တာဝန်ခံ၍ ပင့်လိုက်ကြသည်။

ထို့ကြောင့် ဆရာတော်ကြီး အပါး၂၀ ရန်ကုန်သို့ ကြွလာတော်မူကြသည်၊ ထို့နောက် ၁၃၁၃ ခု (၁၀-၂-၅၂) တပို့တွဲလပြည့် တနင်္ဂနွေနေ့တွင် ရန်ကုန်မြို့ ကုက္ကိုင်းသာသနာ့ရိပ်သာ ဖလ်ယဉ်ဓမ္မာရုံကြီး တည်ဆောက်မည့်နေရာ မင်္ဂလာယာယီမဏ္ဍပ်ကြီး၌ အစည်းအဝေး စတင်ကျင်းပတော်မူကြသည်၊ ယင်းအစည်းအဝေးကို *"နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့မှ တာဝန်ယူ ကျင်းပသော ဆဋ္ဌသင်္ဂါယနာအတွက် နာယကဆရာတော်ကြီးများ၏ အစည်းအဝေးကြီး" ဟူ၍ ခေါင်းစီးတပ်ထားသည်။

## ကြွရောက်တော်မူလာသော ဆရာတော်ဘုရားကြီး အပါး၂၀ တို့မှာ

၁။ ဆရာတော် ဦးစာရိန္ဒာဘိဝံသ (အဂ္ဂမဟာပဏ္ဍိတ, ဒွါရဂိုဏ်း၏ ဥက္ကဋ္ဌ မဟာနာယက) ဘုရားကြီးကျောင်းတိုက်, ဟင်္သာတမြို့။

၂။ ဆရာတော် ဦးရေဝတ (အဂ္ဂမဟာပဏ္ဍိတ, ညောင်ရမ်းဆရာတော်) မိုးကောင်းကျောင်းတိုက်, အနောက်ပြင်, မန္တလေးမြို့။

၃။ တောင်ပေါက်ဆရာတော် (အဂ္ဂမဟာပဏ္ဍိတ), တောင်ပေါက်ကျောင်းတိုက်, မော်လမြိုင်မြို့။

၄။ လေသာဆရာတော် ဦးဓမ္မိက (နိုင်ငံတော် ဩဝါဒါစရိယ), လေသာကျောင်းတိုက်, ရန်ကုန်မြို့။

၅။ ဆင်တဲဆရာတော်, ဆင်တဲကျောင်းတိုက်, အနောက်ပြင်, မန္တလေးမြို့။

၆။ ဆရာတော်ဦးဇဝန, မဟာဝိဇယာရာမ အရှေ့တိုက်, ပခုက္ကူမြို့။

၇။ ဆရာတော် ဦးဝိလာသ (အဂ္ဂမဟာပဏ္ဍိတ), မိတ္ထီလာမြို့။

၈။ ဆရာတော် ဦးဝါသဝ (အဂ္ဂမဟာပဏ္ဍိတ), ပန်းတောင်းမြို့။

၉။ ဆရာတော် ဦးသုဘာစိတ (အဂ္ဂမဟာပဏ္ဍိတ), ကံတွင်းဆုတောင်းပြည့်ကျောင်းတိုက်, ပြည်မြို့။

၁၀။ ဆရာတော် ဦးပညာဝံသ (အဂ္ဂမဟာပဏ္ဍိတ), ရေနံချောင်းမြို့။

၁၁။ စံကျောင်းဆရာတော်, စံကျောင်းတိုက်, မန္တလေး။

၁၂။ ဆရာတော် ဦးနန္ဒဝံသ, မဟာဝိသုတာရာမတိုက်, ညောင်ဦးမြို့။

၁၃။ ပတ္တမြားဆရာတော် ဦးဇာဂရ, ပတ္တမြားတိုက်, အနောက်ပြင်, မန္တလေးမြို့။

၁၄။ မုဒွန်းဆရာတော် ဦးကောသလ္လ (အဂ္ဂမဟာပဏ္ဍိတ), ပိဋကတ်တိုက်ကျောင်း, မုဒွန်းရွာ, ချောင်းဆုံမြို့နယ်, မွန်ပြည်နယ်။

---

* "နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့မှ တာဝန်ယူကျင်းပသောဆဋ္ဌသင်္ဂါယနာ"ဟူ၍ ခေါင်းစီးတပ်ရသည်မှာ အဓိပ္ပာယ်တွေများစွာရှိပါ၏၊ ယင်းတို့ကား ရန်ကုန်မြို့ ဗုဒ္ဓဘာသာကလျာဏယုဝ (ဝိုင်အမ်ဘီအေ)အသင်းကြီးက ထို့ထက်စောသော အချိန်ပိုင်းမှစတင်၍ ပိဋကတ်တော်များ သန့်စင်မှန်ကန်ရေးကို ဆရာတော်ဘုရားကြီးများ၏အကူအညီဖြင့် ကြိုးစားထားပြီး ရှိနေလေပြီ၊ "ဆဋ္ဌသင်္ဂါယနာတင်မည်"ဟု မကြျေငြာသော်လည်း ထိုသဘောမျိုးစီစဉ်ထားသဖြင့် အတော်အသင့် ပြီးစီးနေပြီဖြစ်လေသည်၊ မြန်မာပြည် ထက်အောက်အနံ့ ဂိုဏ်းပေါင်းစုံမှ ကျွမ်းကျင်သော ဆရာတော်ဘုရားကြီးများက ပိဋကတ်တော်ကို သုတ်သင်ပေးသဖြင့် အုပ်ရေ ၂၀ ပင် လက်ဝယ်ရရှိနေလေပြီ၊ ယင်းအချိန်တွင်မှ အစိုးရက "ဆဋ္ဌသင်္ဂါယနာပွဲ ဆင်နွှဲကျင်းပမည်"ဟုဆိုကာ အလှူခံသဖြင့် အုပ်ရေ ၂၀ ကို ရက်ရောစွာ လှူလိုက်၏၊ ထို့နောက် အစိုးရအနေဖြင့် တာဝန်ယူ ကျင်းပမည်ဖြစ်သောကြောင့် အထက်ပါအတိုင်း ခေါင်းစီးတပ်ခြင်းဖြစ်သည်။ (သင်္ဂါယနာစာစောင် အတွဲ ၁, အမှတ် ၁၁၊ နှာ ၂။)



ညောင်ရမ်းဆရာတော် ဦးဇေဝတ



ဟံသာဝတီဆရာတော် ဦးဏ္ဍနွာသဘ

၁၅။ ဆရာတော် ဦးသောဘန, မဟာစည်သာသနာ့ရိပ်သာ, ကုက္ကိုင်း, ရန်ကုန်မြို့။

၁၆။ ဆရာတော် ဦးသုန္ဒရ, မဟာဝိသုတာရာမတိုက်, ပခုက္ကူမြို့။

၁၇။ ဆရာတော် ဦးသူရိယ, မစိုးရိမ်ကျောင်းတိုက်, အနောက်ပြင်, မန္တလေးမြို့။

၁၈။ ဆရာတော် ဦးဇနက (အဂ္ဂမဟာပဏ္ဍိတ), မဟာဂန္ဓာရုံကျောင်းတိုက်, အမရပူရမြို့။

၁၉။ ဆရာတော် ဦးခေမိန္ဒ, မိုးမိတ်။

၂၀။ ဆရာတော် ဦးနာဂိန္ဒသာမိ (အဂ္ဂမဟာပဏ္ဍိတ), မိုးညှို သာယာဝတီတို့ ဖြစ်ကြသည်။

## အခြေခံအဖွဲ့အစည်း

ယင်းအစည်းအဝေးကြီးတွင် သက်တော်ဝါတော် အကြီးဆုံး ရတ္တညူဂုဏ်နှင့် ပြည့်စုံတော်မူသော ဟင်္သာတမြို့, ဘုရားကြီးကျောင်းတိုက်, အဂ္ဂမဟာပဏ္ဍိတ, ဆရာတော် ဦးစာရိန္ဒာသဘ, သက်တော် ၈၄ နှစ်ရှိဆရာတော်ဘုရားကြီးကို သဘာပတိအဖြစ် တင်မြှောက်တော်မူကြ၏၊ အခမ်းအနားမှူးအဖြစ် မန္တလေးမြို့, အနောက်ပြင်, မိုးကောင်းတိုက်, ညောင်ရမ်းဆရာတော် ဦးရေဝတက ဆောင်ရွက်တော်မူသည်။

ဤအစည်းအဝေးကြီးက မူချ၍ ဆုံးဖြတ်တော်မူကြသည်မှာ ပြည်ထောင်စုမြန်မာနိုင်ငံအတွင်း၌ အနှံ့အပြား သီတင်းသုံးတော်မူလျက်ရှိကြသော…

၁။ အဂ္ဂမဟာပဏ္ဍိတဆရာတော်ကြီးများ၊

၂။ နိုင်ငံတော်သြဝါဒါစရိယဆရာတော်ကြီးများနှင့်

၃။ နိုင်ငံတော် ဝိနည်းမိုရ်ဆရာတော်ကြီးများကို စုံလင်အောင် ပင့်ဖိတ်ပြီးလျှင် ယင်းသုံးမျိုးလုံးကို စုပေါင်းလျက်"ဆဋ္ဌသင်္ဂါယနာသြဝါဒါစရိယသံဃနာယကအဖွဲ့"ဟု ဖွဲ့စည်း၍ အသိအမှတ်ပြုရန်။

ထို့ပြင် ဆဋ္ဌသင်္ဂါယနာလုပ်ငန်းကိစ္စ အရပ်ရပ် တို့ကို စီမံခန့်ခွဲရမည့် "ဆဋ္ဌသင်္ဂါယနာဝန်ဆောင်သံဃာအဖွဲ့"ကို ဩဝါဒါစရိယဆရာတော်ကြီးများ၏ ဆန္ဒနှင့်အညီ ဖွဲ့စည်း၍ အဖွဲ့ဝင်တို့ကိုလည်း ရွေးကောက်ရန် ဆုံးဖြတ်တော်မူကြသည်။

အစည်းအဝေးကြီးကို တပို့တွဲလပြည့်ကျော် ၁, ၂, ၃ ရက်တိုင်တိုင် ဆက်လက်စည်းဝေး ညှိနှိုင်း မူချတော်မူကြသည်၊ ဤမူအရ "ဆဋ္ဌသင်္ဂါယနာဝန်ဆောင်သံဃာ့အဖွဲ့ဝင်"များကို ရွေးကောက်တော်မူကြ၏။



ဓနုဖြူဒွါရဂိုဏ်းဆရာတော်ကြီး ဦးဇနကာဘိဝံသ



တောင်ပြင်ဆရာတော် ဦးကြယ်

## ဆဋ္ဌသင်္ဂါယနာဝန်ဆောင်သံဃာ့အဖွဲ့

၁။ ညောင်ရမ်းဆရာတော် (အဂ္ဂမဟာပဏ္ဍိတ), မိုးကောင်းတိုက်, အနောက်ပြင်, မန္တလေးမြို့။

၂။ ဟံသာဝတီဆရာတော် ဦးကလျာဏ, ဘုရားကြီးတိုက်, တောင်ပြင်, မန္တလေးမြို့။

၃။ ရွှေဘုန်းရှိန်ဆရာတော် ဦးဥက္ကံသ (ဦးကြယ်), ဘုရားကြီးတိုက်, တောင်ပြင်, မန္တလေးမြို့။

၄။ ဆရာတော် ဦးဇနကာဘိဝံသ (အဂ္ဂမဟာပဏ္ဍိတ), မဟာဂန္ဓာရုံကျောင်းတိုက်, အမရပူရမြို့။

၅။ ဆရာတော် ဦးဝိသုဒ္ဓ (ဝိဇ္ဇာလင်္ကာရဆရာတော်၏ကိုယ်စား) ဝိဇ္ဇာလင်္ကာရတိုက် အနောက်ပြင်, မန္တလေးမြို့။

၆။ ဆရာတော် ဦးနာဂဝံသ, ဗားကရာတောရ, မြေနီကုန်း, ရန်ကုန်မြို့။

၇။ ဆရာတော် ဦးကဿရိယ, အရှင်အာဒိစ္စဝံသကျောင်းတိုက်, ပုဇွန်တောင်, ရန်ကုန်မြို့။

၈။ ဘုရားဖြူဆရာတော် ဦးပညာဝံသ (နိုင်ငံတော် ဝိနည်းဓိုရ်), ဘလုပ်ကျောင်း, ရန်ကုန်မြို့။

၉။ ဘလုပ်ဆရာတော် ဦးဝိလာသ (နိုင်ငံတော် ဝိနည်းဓိုရ်), ဘလုပ်ကျောင်း, ရန်ကုန်မြို့။

၁၀။ ပုသိမ်ဆရာတော် ဦးရေဝတ, တောင်သမန်တိုက်, အနောက်ပြင်, မန္တလေးမြို့။

၁၁။ သပြေပင်ဆရာတော် ဦးသောဘန, သပြေပင်ကျောင်းတိုက်, ဟင်္သာတမြို့။
၁၂။ ဆရာတော် ဦးပညာဝံသ (အဂ္ဂမဟာပဏ္ဍိတ), ရေနံချောင်းမြို့။
၁၃။ ဆရာတော် ဦးသုန္ဒရ, မဟာဝိသုတာရာမတိုက်, ပခုက္ကူမြို့။
၁၄။ မဟာစည်ဆရာတော် ဦးသောဘန, မဟာစည်သာသနာ့ရိပ်သာ, ကုက္ကိုင်း, ရန်ကုန်မြို့။
၁၅။ ဆရာတော် ဦးဝိမလ (ဝိပဿနာဂန္ဓာရုံဆရာတော်၏ကိုယ်စား) စစ်ကိုင်းတောင်ရိုး။
၁၆။ စံကျောင်းဆရာတော် (အဂ္ဂမဟာပဏ္ဍိတ), စံကျောင်းတိုက်, မန္တလေးမြို့။
၁၇။ ဆရာတော် ဦးစန္ဒရံသီ, ဓနုဖြူမြို့။
၁၈။ စလင်းဆရာတော် ဦးဇောတယ, စလင်းကျောင်းတိုက်, ကြည့်မြင်တိုင်, ရန်ကုန်မြို့။
၁၉။ ဆရာတော် ဦးသုဘာသိတ (အဂ္ဂမဟာပဏ္ဍိတ), ကံတွင်းဆုတောင်းပြည့်ကျောင်းတိုက်, ပြည်မြို့။

ဤသို့ ၁၉ ပါးကို ရွေးကောက်တော်မူကြ၍၊ ဆဋ္ဌသင်္ဂါယနာလုပ်ငန်းကြီးတစ်ခုလုံးကို ဤ "ဆဋ္ဌသင်္ဂါယနာဝန်ဆောင်သံဃာ့အဖွဲ့" (ဆဋ္ဌသင်္ဂီတိဘာရနိတ္ထာရကသံဃသဘာ)က စီမံ ဦးဆောင်သွားရမည်ဖြစ်သည်။



တောင်ပြင်ဆရာတော် ဦးနာရဒ



ခြောက်ထပ်ကြီးဆရာတော် ဦးကောဏ္ဍည

## အဖွဲ့ဝင်တိုးချဲ့ဖွဲ့စည်းရခြင်း

ဤသို့သော အဖွဲ့အသွင်ဖြင့် လုပ်ငန်းခွင်ဝင်၍ တစ်စ တစ်စနှင့် ကမကထပြုရင်း ဦးဆောင်စီမံပြီး လုပ်ကိုင်လာခဲ့ကြရာ အချို့ ဆရာတော်များမှာ ကျန်းမာရေးစသော အကြောင်းတို့ကြောင့် အချိန်ပြည့် တာဝန်ယူရန် ခဲယဉ်းတော်မူလာကြသည်၊ ထို့ကြောင့် ၁၃၁၄ ခု ဝါဆိုလဆန်း ၇ ရက် (၂၈-၆-၅၂) စနေနေ့တွင် "ဆဋ္ဌသင်္ဂါယနာ ဩဝါဒါစရိယသံဃာ့အဖွဲ့"ကြီး၏ ဒုတိယအကြိမ်စည်းဝေးသောအခါ"ဝန်ဆောင်ဆရာတော်များအဖွဲ့"တွင် လစ်လပ်သော နေရာ၌ အစားထိုးခြင်း, ဦးရေထပ်မံ တိုးချဲ့ခြင်းဖြင့် အဖွဲ့ဝင် ၂၅ ပါးအထိ ပါဝင်စေလျက် ဖွဲ့စည်းတော်မူလာကြသည်။

*ထို့အပြင် ဤဒုတိယအကြိမ် စည်းဝေးပွဲ၌ မန္တလေး မိုးကောင်းတိုက် ညောင်ရမ်းဆရာတော်ကြီးကို ဤဝန်ဆောင်အဖွဲ့၏ဥက္ကဋ္ဌအဖြစ်လည်းကောင်း, မန္တလေး ဝိဇ္ဇာလင်္ကာရ ဆရာတော် ဦးဝိသုဒ္ဓကို အတွင်းရေးမှူးအဖြစ်လည်းကောင်း တင်မြှောက်တော်မူကြသည်။

## ဆဋ္ဌသင်္ဂါယနာမှာ တာဝန်ကျေခဲ့

ဆရာတော် အရှင်ဇနကာဘိဝံသမှာ မူလပထမ ဩဝါဒါစရိယသံဃနာယကအဖွဲ့တွင်လည်းကောင်း, ထို့နောက် ၁၉ ပါးဝန်ဆောင်အဖွဲ့တွင်လည်းကောင်း, တစ်ဖန် နောက်ထပ် တိုးချဲ့ဖွဲ့စည်းသော ၂၅ ပါး ဝန်ဆောင်အဖွဲ့တွင်လည်းကောင်း ရှေ့ပိုင်းမှ ပါဝင် ရွေးကောက်ခြင်းခံတော်မူရ၏၊ အများကလေးစား၍ ရွေးကောက်ခြင်းခံရသည့်အားလျော်စွာ ဆဋ္ဌသင်္ဂါယနာလုပ်ငန်းကြီးကိုလည်း တာဝန်ကျေကျေ ဆောင်ရွက်တော်မူခဲ့ပေသည်၊ ဤ"ဆဋ္ဌသင်္ဂါယနာ ဝန်ဆောင်အဖွဲ့ကြီး" ကို ဆဋ္ဌသင်္ဂါယနာကိစ္စနှင့် စပ်၍ အရပ်ရပ်သောတာဝန်တို့ကို ထမ်းဆောင်ရသည့်အတွက် "ဆဋ္ဌသင်္ဂီတိဘာရနိတ္ထာရကသံဃသဘာ"ဟုလည်း ခေါ်သေး၏။

ဤသို့လျှင် ဆရာတော် အရှင်ဇနကာဘိဝံသမှာ ဆဋ္ဌသင်္ဂါယနာကိစ္စကြီးအတွက် အရေးကြီးသော တာဝန်ရပ်တို့ကို ထမ်းဆောင်ရသော (က) "ဆဋ္ဌသင်္ဂီတိဘာရနိတ္ထာရကသံဃသဘာ"တွင် ပါဝင်ရသည့်ပြင် အခြားသော (ခ) ဆဋ္ဌသင်္ဂီတိဩဝါဒါစရိယသံဃနာယကအဖွဲ့, (ဂ) ဆဋ္ဌသင်္ဂီတိပါဠိ ပဋိဝိသောဓကအဖွဲ့, (ဃ) ဆဋ္ဌသင်္ဂီတိဩသာန သောဓေယျပဋ္ဌာပါဌကအဖွဲ့တို့၌လည်း ပါဝင်ရ၍ ဆိုင်ရာ ဆိုင်ရာ တာဝန်ရပ်တို့ကို ထမ်းဆောင်ရပြန်သေးသည်။

ဤသို့လျှင် သာသနာတော်အတွက် ယုံကြည်ချက် အပြည့်အဝဖြင့် ကျကျနန အားသွန်ခွန်စိုက် ဆောင်ရွက်တော်မူခဲ့ပေသည်။

## သင်္ဂါယနာသုံးတန်နှင့်နှိုင်းယှဉ်၍လျှောက်ခြင်း

### တာဝန်သိသူတိုင်း တာဝန်ထမ်းရန်

မိမိတို့၏မျိုးရိုးကို မတိမ်ကောလိုသူတိုင်း မျိုးရိုး၏ အစဉ်အလာကို ထိန်းသိမ်းရသလို တိုင်းပြည်ကို ချစ်မြတ်နိုးသူတိုင်း တိုင်းပြည်ညှိုးမှိန်မသွားအောင် စောင့်ရှောက်ကြရ၏၊ ထို့အတူ သာသနာကို မြတ်နိုးသူတိုင်းလည်း သာသနာမညှိုးမှိန်အောင် စောင့်ရှောက်ကြရ, ကြိုးတင်ပြုပြင်ကြရသည်၊ ဤကား မြတ်နိုးသူတိုင်း၏ တာဝန်တစ်ရပ်ပင် ဖြစ်၏။

ဤသို့လျှင် တာဝန်ဟူ၍ သိသူတိုင်း တာဝန်ကို ထမ်းဆောင်ကြရသည်မှာ သူတော်ကောင်းတို့၏ အလုပ်သာ ဖြစ်သည်၊ ဤသဘောများကို ငုံခြုံ၍ ဆဋ္ဌသင်္ဂါယနာ၏ အကြိုစည်းဝေးပွဲများတွင် ဆရာတော် အရှင်ဇနကာဘိဝံသက မိမိမြင်သမျှ ထင်သမျှကို သင်္ဂါယနာသုံးတန်နှင့် ယှဉ်ပြ၍ ဆရာတော်ကြီးများ၏ အထံတော်၌ လျှောက်ထားခဲ့ဖူးသည်။

ဝိနည်းကျင့်ဝတ်အင်အားများ လျော့ရဲရဲဖြစ်လာမည့်အရေးကို မျှော်တွေးမိ၍ ပထမသင်္ဂါယနာတင်ခဲ့ရပုံ, ငွေအလှူခံမှုစသော မအပ်မရာတို့ကို လျော့လျော့ရဲရဲ ပြုလုပ်လာကြသဖြင့် ဒုတိယသင်္ဂါယနာတင်ခဲ့ရပုံ, အစားချောင် အနေချောင်မှုတို့၏ အရိပ်ကို ခိုလှုံလိုသဖြင့် သဒ္ဓါတရားမရှိဘဲ သာသနာထဲ ဝင်လာကြသူတို့ကြောင့် တတိယသင်္ဂါယနာတင်ခဲ့ရပုံတို့ကို ပြန်လည်သုံးသပ်ပြ၍ လျှောက်ထားခဲ့လေသည်။

ယခုခေတ်တွင်လည်း ထိုအရိပ်အရောင်များ သန်းလာကြသဖြင့် အချိန်မီ (ဤဆဋ္ဌသင်္ဂါယနာပွဲတွင်) ပြုပြင်တော်မူကြပါရန် ယခုလို အဘက်ဘက်မှ အချိန်ကောင်းခိုက်တွင် လှုံ့လစိုက်၍ မပြုပြင်လိုက်ပါလျှင် နောင်မကြာတော့သော အချိန်ကာလဝယ်

---

* ဆဋ္ဌသင်္ဂါယနာလုပ်ငန်းစဉ် ဥပဒေသကထာ ဒု-ကြိမ်, နှာ-၁၅။

ရင်လေးဖွယ်ရာတို့နှင့် ကြုံကြိုက်ရပါလိမ့်မည်စသည် ဖြင့် ဆရာတော် အရှင်ဇနကာဘိဝံသက အနာဂတ် သာသနာအရေးကို မျှော်တွေးလျက် လျှောက်ထား ခဲ့ဖူးသည်၊ ယင်းလျှောက်ထားချက်ကို ပြုပြင်လိုသော သာသနမာမကများအတွက် ကြည့်ရှုဆင်ခြင်ပြုပြင် နိုင်ရန် ယခု ဖော်ပြလိုက်ပါသည်။

## ပါဠိဝိသောကေသံယာအစည်းအဝေး၌ အရှင်ဇနကာဘိဝံသ၏ လျှောက်ထားချက် အချိန်ဒါန်း

မန္တလေးမြို့ အကျိုးတော်ဆောင်ဆရာတော် ဦးဝိသုဒ္ဓထံမှ (ဤအစည်းအဝေး၌ ဩဝါဒမိန့်ခွန်းပြော ဖို့ရန်) တိုက်တွန်းသောစာကို တပည့်တော်များ ရရှိပါသည်၊ သို့သော် ဤအစည်းအဝေး၌ တပည့်တော် များ၏ ဆရာသမား ဖြစ်တော်မူကြသော ဆရာတော်ကြီးများနှင့် ဆရာသမားအရွယ် ဆရာတော်ကြီးများ အပြင် သီတင်းသုံးဖော်အများ ပါဝင်နေရကား (ဩဝါဒမိန့်ခွန်း) အနေအားဖြင့် မိန့်မြွက်ခြင်းငှာ မဝံ့ပါ သောကြောင့် တပည့်တော်များ၏ ထင်မြင်ချက် ယူဆချက်ကို အစည်းအဝေးပါ ဆရာတော် သံဃာတော် များထံ လျှောက်ထားတင်ပြသော အနေအထားဖြင့်သာ တင်သွင်းလျှောက်ထားပါရစေဘုရား။

## သာသနာစိတ်

ထိုသို့ လျှောက်ထားရာ၌ လူမျိုးတိုင်းမှာ မိမိအမျိုးကို ချစ်ခင်သောစိတ်ရှိအောင် ကြိုးစားရသကဲ့သို့ တပည့်တော်များ၏ သာသနာ့ဝန်ထမ်း ရဟန်း, သာမဏေတိုင်းမှာလည်း သာသနာတော်ကို ချစ်ခင်သော စိတ် ရှိအောင် အမြဲကြိုးစားရပါမည်၊ ထိုသာသနာစိတ်ဆိုသည်မှာလည်း ဗုဒ္ဓမြတ်စွာ၏ သာသနာတော်ကို ဂုဏ်အသရေ မညှိုးစေဘဲ တတ်နိုင်လျှင် ဂုဏ်တိုးသည်ထက် တိုးအောင် စောင့်ရှောက်လိုသောစိတ်, သာသနာတော် အဓွန့်ရှည်စွာ တည်တံ့၍ ထိုသာသနာတော်ကြောင့်ပင် ပြည်ထောင်စု မြန်မာနိုင်ငံတော်၌ "ကောင်းကျိုးချမ်းသာ မင်္ဂလာရှိပါပေသည်"ဟု ဂုဏ်ပြုခံလိုသောစိတ်ပင် ဖြစ်ပါသည်၊ ထို့ကြောင့် "သာသနာစိတ်"ဟူသော ထိုစကားကလေးကို အခြေခံထား၍ တပည့်တော်များ လျှောက်ထားလိုပါသည်။

## ပထမသင်္ဂါယနာနှင့်နှိုင်းယှဉ်၍လျှောက်ခြင်း

## ပြုပြင်တော်မူရန်

ယခုစည်းဝေးကြသောကိစ္စသည် ဆဋ္ဌသင်္ဂါယနာနှင့်စပ်သောကိစ္စတို့ ဖြစ်ပါသည်၊ ထို့ကြောင့် ရှေးရှေး ပထမသင်္ဂါယနာစသော ကိစ္စ၌ သင်္ဂါယနာတင်ခြင်း၏ အကြောင်းနှင့်တကွ ထိုအချိန်က ရဟန္တာအရှင် မြတ်ကြီးတို့၏ မိန့်ခွန်းတော်အချို့ကို သိတော်မူကြပြီးဖြစ်သော်လည်း ဤဆဋ္ဌသင်္ဂါယနာနှင့်ဆက်စပ်၍ လေးလေးနက်နက် ပြုပြင်သင့်သော အရာများကို ပြုပြင်နိုင်သလောက် ပြုပြင်ပေးတော်မူကြဖို့ရန် လျှောက်လိုပါသည်။

## ဝိနည်းအားပျော့ပုံ

ပထမသင်္ဂါယနာမတင်မီ သံဃာတော်များ၏ အစည်းအဝေး၌ အရှင်မဟာကဿပမထေရ်မြတ်၏ မိန့်ခွန်းတော်တွင် "ဟန္ဒ မယံ အာဝုသော ဓမ္မဉ္စ ဝိနယဉ္စ သံဂါယာမ ပုရေ အဝိနယော ဒိပ္ပတိ၊ ဝိနယော ပဋိဗာဟိယျတိ=ငါ့ရှင်တို့...ဝိနည်း၏ဆန့်ကျင်ဘက်များထွန်းကား၍ ဝိနည်းတရားကို မတားမြစ်နိုင်သေးခင် ယခုနှယ်က ကြိုတင်၍ ဓမ္မဝိနယကို သင်္ဂါယနာတင်ကြစို့"ဟူသော မိန့်ခွန်းတော်တစ်ရပ် ပါရှိခဲ့ပါသည်။

ထိုမိန့်ခွန်းတော်ကို မိန့်မြွက်တော်မူချိန်က ဝိနည်း၏ ဆန့်ကျင်ဘက်တရားများ မထွန်းကားသေး၍ ဝိနည်းတရားတော်ကို မလွှမ်းမိုးနိုင်သေးသော်လည်း ယခုအချိန်မှာမူ ဧရုတ်သီးအမှည့်ကို ဝိနည်းထုံးစံအရ ကပ်ပွဲ၍ စားလျှင် တောကျသည်ဟူသော စကား, ဝိနည်းတော်၏ ဆန့်ကျင်ဘက် အချို့ အလုပ်များကို ပြုကောင်းသည်ဟူသော အနေအားဖြင့် အထင်အရှား ပြုလုပ်ဝံ့သော အမှုအရာများကို ကြားရ မြင်ရသော ကြောင့် ဆန့်ကျင်ဘက်တရားတို့က ဝိနည်းတရားတော်ကို လွှမ်းမိုးနေကြောင်း ထင်ရှားနေပါပြီ။

## ဝိနည်းသည် အသက်

"ဝိနယော နာမ သာသနဿ အာယု=ဝိနည်းမည်သော အကျင့်သိက္ခာသည် သာသနာတော်၏အသက် ဖြစ်သည်"ဟူသော အမိန့်တော်ကို အပြန်အလှန် ဆင်ခြင်စဉ်းစားသောအခါ ဝိနည်းကျင့်ထုံးကို လိုက်နာ နေသမျှ သာသနာတော် အသက်ရှင်လျက်ရှိ၍ ဝိနည်းကျင့်ထုံးကို မလိုက်နာလျှင် သာသနာတော်သည် အသေဖြစ်တော့၏ဟု ထင်ရှားနေပါသည်။

သို့ဖြစ်လျှင် အသေကောင်ကို စွန့်ပစ်ကြသကဲ့သို့ ဝိနည်းကို မကျင့်သော ပုဂ္ဂိုလ်တွေ များလာသောအခါ သာသနာတော်လည်း ဧကန် စွန့်ပယ်မှုကို ခံရပါတော့မည်၊ ထိုအချိန်ဝယ် တပည့်တော်တို့သည် ရဟန်း သံဃာတော် အနေအစားမျိုး မဟုတ်ကြတော့ဘဲ ရသေ့ ပရိဗိုဇ်များ အနေအစားမျိုးသာ ဖြစ်ကြရ ပါတော့မည်။

ဤနေရာဝယ် အချို့သောနိုင်ငံများ၌ ဝိနည်းမရှိဘဲ (ရှိသင့်သလောက် ရှိစေကာမူ အပြည့်အစုံမရှိဘဲ) ဘိက္ခုအမည်ခံနေကြသော ပုဂ္ဂိုလ်များ အပေါ်ဝယ် ဗုဒ္ဓဘာသာဝင် ဆိုသူတို့ကပင် ရိုသေ လေးစားမှု နည်းပါး၍ သူတို့ကသာ လူများ၏ ဩဇာခံ ဖြစ်နေကြရပုံကို အားနာစွာဖြင့် ညွှန်ပြလိုပါသည်၊ ဝိနည်း လေးစားမှု နည်းပါးလာသောအခါ တပည့်တော်များ သွားလမ်းလည်း ဤလမ်းပင် ဖြစ်ရပါလိမ့်မည်။

## ဒုတိယသင်္ဂါယနာနှင့်နိုင်းယှဉ်၍လျှောက်ခြင်း

## ငွေလှူလျှင် ခံယူကောင်းသလော

တပည့်တော်များသည် ဒုတိယသင်္ဂါယနာတင်ရခြင်း၏ လိုရင်းအကျဆုံးအကြောင်းကို စဉ်းစားသော အခါ "ကပ္ပတိ ဇာတရူပရဇတံ=ရွှေငွေသည် အပ်၏"ဟု ယူဆ၍ ငွေအလှူခံကြသောအမှုကို တွေ့ရပါ သည်၊ ဤကိစ္စနှင့်စပ်၍ ဆရာတော်ဘုရားများ သိပြီးဖြစ်ပါသော်လည်း လူဒါယကာအများ နားရှင်းအောင် လျှောက်ထားပါရစေ။

ဝိနည်းတော်အလိုမှာ ငွေလှူသည်ကို လက်ခံရုံမျှဖြင့် အာပတ်သင့်၍ ထိုလက်ခံထားသော ငွေဖြင့် ဝယ်၍ ရသော ပစ္စည်းကို မည်သည့် ရဟန်း သာမဏေမျှ မသုံးစွဲကောင်းတော့၊ ဥပမာ-ထိုငွေဖြင့် ကျောင်းဆောက်လျှင် ထိုကျောင်းကြီး တည်နေသမျှ သုံးစွဲသော ရဟန်း သာမဏေတိုင်းမှာ ကျောင်းကို သုံးတိုင်း သုံးတိုင်း အပြစ်မကင်းတော့ပါ။

ဤမျှလောက် အဆက်ဆက် အပြစ်မကင်းသောကြောင့်ပင် ထိုငွေအလှူခံမှုကို အရင်းခံပြု၍ ဒုတိယ သင်္ဂါယနာ တင်ခဲ့ကြရပါသည်။

## သာသနာရောင်ကို ငွေရောင်လွှမ်းနိုင်ပုံ

ထိုသို့ ဒုတိယသင်္ဂါယနာတင်ရလောက်အောင် အပြစ်ကြီးလေးသောငွေကို ယခုအခါ များစွာသော အလှူဒါနတို့၌ လှူဒါန်းလေ့ရှိပြန်ရာ "ကပ္ပိယဒါယကာထံ အပ်နှံ၍ အပ်သောနည်းလမ်းဖြင့် လှူပါသည်" ဟု ဆိုစေကာမူ လက်တွေ့အားဖြင့် အပ်ဖို့ ခဲယဉ်းလှပါသည်၊ ဘာ့ကြောင့်နည်း? အပ်သောနည်းလမ်းဖြင့် ရှိနေသော ငွေကိုပင် တစ်စုံတစ်ခု ဝယ်ယူလိုသောအခါ "ပေးလိုက်"ဟုမျှ မစီမံကောင်းသောကြောင့် ဖြစ်ပါသည်၊ အင်္ဂုတ္တရနိကာယ စတုက္ကနိပါတ် ပထမပဏ္ဏာသက ရောဟိတဿဝဂ်၌လည်း "ဆီးနှင်း, မြူခိုး, ရာဟု, မိုး"ဟု လေးမျိုးသော အညစ်အကြေးသည် လမင်းကို အရောင်မလင်းအောင် ပြုသကဲ့သို့ ရွှေငွေသည်လည်း ရဟန်း သံဃာတော်တည်းဟူသော လမင်းကို အရောင်ကင်းအောင် ပြုနိုင်သည်ဟု မိန့်တော်မူပါသည်၊ ထို့ကြောင့် ယခုအခါ ငွေမပါလျှင် အရာရာ မပြီးစီးနိုင်ရကား ငွေရေးကိစ္စကိုလည်း ဤဆဋ္ဌသင်္ဂါယနာပွဲ၌ သဲကွဲအောင် စီမံသင့်သည်ဟု ထင်ပါသည်။

## တတိယသင်္ဂါယနာနှင့်နှိုင်းယှဉ်၍လျှောက်ခြင်း

## ရှင်/ရဟန်းပြု စိစစ်ဖွယ်

တတိယသင်္ဂါယနာတင်ခြင်း၏အကြောင်းကို စဉ်းစားပြန်လျှင် ဓမ္မာသောက မဟာရာဇာ၏ ပစ္စည်းလေးပါးဖြင့် ကြီးကျယ်စွာ ထောက်ပံ့မှုကြောင့် သာသနာတော်ဝယ် လာဘ်လာဘ ရှားပါးသော တိတ္ထိပရိဗိုဇ်အများသည် ရဟန်းအသွင်ကို ဝတ်ဆင်၍ အယူဝါဒအမျိုးမျိုး ဖော်ပြမှုကို တွေ့ရပါသည်။

တပည့်တော်များ၏ လက်ရှိသာသနာမှာလည်း ယခုအချိန်တိုင်အောင် ပစ္စည်းလေးပါးရှားပါးလှသည်ဟု မဆိုသာသေးပါ၊ များသောအားဖြင့် သာမန်လူဝတ်ကြောင်များထက် အဆင့်အတန်းမြင့်သော ပစ္စည်းလေးပါးကို တွေ့မြင်နိုင်ပါသည်၊ ထိုပစ္စည်းလေးပါး ချောင်ချိပုံကို အကြောင်းပြု၍ အချို့သော မိဘဆွေမျိုးများသည် လူ့ဘောင်တွင် အဆင့်အတန်းမီပုံမရသော လူလင်များကို ရှင်ရဟန်းပြုဖို့ရန် တိုက်တွန်းသည်ကို တွေ့မြင် ကြားသိရပါသည်၊ နဂိုကပင် သဒ္ဓါတရားကိုဖြစ်စေ, ပညာဉာဏ်ကိုဖြစ်စေ အခြေခံ၍ ရှင် ရဟန်းပြုခဲ့သူ မဟုတ်သော ထိုပုဂ္ဂိုလ်များသည် သာသနာတော်၏ ပရိယတ်တာဝန်, ပဋိပတ်တာဝန်ကို ကောင်းမွန်စွာ ထမ်း၍ သာသနာ့အသရေကို ဆောင်နိုင်ကြလိမ့်မည်ဟု မျှော်လင့်ဖို့ ခဲယဉ်းပါသည်။

## ကျောင်းတိုက်နှစ်မျိုး

ဤဆဋ္ဌသင်္ဂါယနာတင်ကိစ္စတွင် သာသနာတော် သန့်ရှင်းရေးလည်း ပါတန်သမျှ ပါသွားစေရန် ရည်သန်တော်မူကြပါလျှင် ထိုအခြေခံဖြစ်သော ရှင် ရဟန်းပြုမှုမှ စ၍ ပရိယတ်ကို သင်ယူလိုသောကြောင့်လော? ပဋိပတ်ကို ကျင့်ကြံလိုသောကြောင့်လော?ဟု ဆရာကိုယ်တိုင် စစ်ကြောမေးမြန်းပြီးမှ ပရိယတ်သင်မည့် ပုဂ္ဂိုလ်ကို ပရိယတ်ပို့ချသော ကျောင်းတိုက်မှာသာ နေစေ၍ ပဋိပတ်ကျင့်မည့်ပုဂ္ဂိုလ်ကို ပဋိပတ်ကျောင်းတိုက်၌သာ နေစေသင့်ပါသည်၊ သို့ဖြစ်လျှင် တပည့်တော်များ၏ ပြည်ထောင်စု မြန်မာနိုင်ငံတော်ကြီးဝယ်... ကြီးကြီးငယ်ငယ် အသွယ်သွယ်သော ကျောင်းတိုက်များကို ပရိယတ်ဝန်ဆောင်ကျောင်းတိုက်, ပဋိပတ်ဝန်ဆောင်ကျောင်းတိုက်ဟု နှစ်မျိုးနှစ်စားသာ အတည်တကျ ပြတ်ပြတ်သားသား ခွဲခြား၍ ထိုကျောင်းတိုက်များ၌ သင်နည်းကျင့်နည်းများလည်း အဆင့်အတန်း သေချာစွာရှိသင့်ပါသည်။

## အချိန်ကောင်းခိုက် လုံ့လစိုက်

## ဩဇာရှိသော ဆရာတော်များ

ယခုအချိန်အခါသည် ဆရာဘက်ကိုဖြစ်စေ, ဒကာဘက်ကိုဖြစ်စေ စဉ်းစားဆင်ခြင်လျှင် သာသနာရေး ဆိုင်ရာ အဖြာဖြာကို လွန်စွာ ပြုပြင်ဖို့ကောင်းသော အချိန်အခါ ဖြစ်ပါသည်၊ ဤအချိန်ထက် နောက်ကျ သွားလျှင် သာသနာပြုပြင်ဖို့အရေးမှာ မတွေးဝံ့လောက်အောင် အခက်အခဲများကို မြော်မြင်မိပါသည်၊ အတိအလင်း ရှင်းရှင်းလျှောက်ရမည်ဆိုလျှင် ဆရာဘက်၌ ဩဇာအာဏာ ကြီးမား၍ အများလေးစား ခံရသော ဆရာတော်ကြီးများသည် သက်တော် ၆၀ ကျော် ၇၀ ကျော်သာ ဖြစ်၍ ဤဆရာတော်ကြီးများ လက်ထက်တော်၌ သာသနာ သန့်ရှင်းမှုကို ဂရုတစိုက် မပြုလိုက်ပါလျှင် နောက်ဆယ်နှစ်လောက် ကြာ သောအခါ ဩဇာကြီးမားသော ဆရာတော်များသည် ပျံလွန်တော်မူပြီးဖြစ်၍ နောက်နောက် ဆရာတော် များသည် သာသနာသန့်ရှင်းမှုကို ဆောင်ရွက်ဖို့ရန် အင်မတန် ခဲယဉ်းလိမ့်မည်ထင်ပါသည်။

## သာသနာပြုဒါယကာများ

ဒကာဘက်ကို စဉ်းစားပြန်လျှင်လည်း လက်ရှိ အစိုးရအဖွဲ့, ဗုဒ္ဓသာသနာအဖွဲ့နှင့် တိုင်းသူပြည်သား များ၏ အခြေအနေကို စဉ်းစားရပါလိမ့်မည်၊ ထိုသုံးမျိုးတွင် ကမ္ဘာအရပ်ရပ်၌ ဝါဒအသစ်အဆန်းတွေ ပျံ့နှံ့နေချိန်မှာ ပြည်ထောင်စု မြန်မာနိုင်ငံတော်ဝယ် ဗုဒ္ဓသာသနာတော်ကို ဤမျှလောက် လေးစားသော အစိုးရအဖွဲ့ကို တပည့်တော်များ တွေ့မြင်နေရသည့်အတွက် နိုင်ငံတော်မှာ လွန်စွာကံကောင်းသေးသည်ဟု ဆိုထိုက်ပါပေသည်၊ အစိုးရအဖွဲ့၏ သာသနာတော်လေးစားမှုကြောင့်သာ ဗုဒ္ဓသာသနာအဖွဲ့ကြီးလည်း ခိုင်ပြီး ခံ့ညားလျက်ရှိ၍ တိုင်းသူပြည်သား လူအများလည်း သာသနာတော် အရေးအရာဝယ် ဤမျှလောက် တက်တက်ကြွကြွ ရှိကြပါသည်။

သို့ရာတွင် လေးနှစ်တစ်ကြိမ် အစိုးရအဖွဲ့ကို ပြုပြင်လေ့ရှိရကား နောက်နောင်အခါဝယ် ဘယ် အခြေအနေမျိုး ဖြစ်မည်ဟု မသိနိုင်သော်လည်း ယခုအခါ များစွာသော လူကြီးလူကောင်း သားသမီး များသည် ဘာသာခြားစာပေကို ဘာသာခြားကျောင်းများ၌ လေ့လာလျက်ရှိခြင်း, နောင်အခါ ထိုသူတို့ပင် ခေါင်းဆောင်ဖြစ်တတ်ခြင်း, ဝါဒအမျိုးမျိုးလည်း ကမ္ဘာအရပ်ရပ်၌ ပျံ့နှံ့လျက်ရှိခြင်း, သတ္တဝါတို့မှာလည်း အသစ်အဆန်းကို စမ်းကြည့်လိုသော ဆန္ဒရှိတတ်ခြင်းတို့ကြောင့် အနာဂတ်အရေးကို တွေးကြည့်လျှင် သာသနာတော်ကြီးအတွက် ရင်လေးဖွယ်များ များလှပါတော့သည်၊ ထို့ကြောင့် ယခုအချိန်အခါသည် ဆရာဘက်ကိုဖြစ်စေ, ဒကာဘက်ကိုဖြစ်စေ စဉ်းစားဆင်ခြင်လျှင် သာသနာရေးဆိုင်ရာ အဖြာဖြာကို လွန်စွာ ပြုပြင်ဖို့ကောင်းသော အချိန်အခါ ဖြစ်ပါသည်။

## ပြုပြင်နိုင်လျှင် ကြောက်စရာ မရှိပါ

တပည့်တော်များသည် သာသနာရေးဆိုင်ရာ အဖြာဖြာကို ယခုနှယ်က စ၍ အချက်ကျကျ ပြုပြင်နိုင်ကြ ပါလျှင် ကမ္ဘာအရပ်ရပ်၌ မည်မျှလောက်ပင် ဝါဒလှိုင်းဂယက် ရိုက်ခတ်၍နေစေကာမူ ဤ ပြည်ထောင်စု မြန်မာနိုင်ငံတော်၌ကား ဗုဒ္ဓဝါဒကို လွှမ်း၍ မည်သည့် ဝါဒအထူးအဆန်းမျှ တက်ရောက်နိုင်လိမ့်မည် မဟုတ်ပါ၊ ပြုပြင်ဖို့ကိစ္စ၌လည်း သာသနာ့ဝန်ထမ်း ရဟန်းတော်များအဖို့ဝယ် မြေစမ်း ခရမ်းပျိုးသလို စမ်းတဝါးဝါး လုပ်နေဖွယ်မလိုပါ။

တပည့်တော်များ၏ ဝိနည်းဒေသနာတော်သည် မကြည်ညိုသေးသူတို့ကိုပင် ကြည်ညိုလာအောင် ဆွဲဆောင်နိုင်ဖို့ရာ စားပုံ သောက်ပုံ ဝတ်ပုံ ရုံပုံ ပြောပုံ ဟောပုံမှစ၍ ကိုယ် နှုတ် အမူအရာကို သွန်သင် ဆုံးမလျက်ရှိပါပြီ၊ သုတ္တန်ဒေသနာတော်သည်လည်း ကိုယ် နှုတ် အမူအရာသာမက စိတ်နေစိတ်ထားကိုပင် ယဉ်ကျေးသိမ်မွေ့အောင် သွေးဆောင် ညွှန်ပြလျက်ရှိပါပြီ၊ အဘိဓမ္မာဒေသနာတော်သည်ကား စိတ်နေ စိတ်ထားကို ပြုပြင်ရာဝယ် ဤသည်ကား လောဘစိတ်, ဤသည်ကား ဒေါသစိတ်, ဤသည်ကား မောဟ မာန်မာနနှင့် အဘိဇ္ဈာ ဣဿာစိတ်ဟု ပြတ်ပြတ်သားသား ခွဲခြားလျက် ရှိပါပြီ။

ထို့ကြောင့် ဤသင်္ဂါယနာကိစ္စမှ စ၍ ဒေသနာတော် သုံးရပ်နှင့်အညီ ကိုယ် နှုတ် စိတ် အမူအရာ ယဉ်ကျေးသိမ်မွေ့အောင် ပြုပြင်၍ ပြည်ထောင်စု-ဒါယကာ ဒါယိကာမတို့အပေါ်ဝယ် မေတ္တာ ကရုဏာ ရှေ့ထားလျက် ကိုယ်ကျင့်စာရိတ္တ ကောင်းသည်ထက်ကောင်းအောင် အားကြိုးမာန်တက် ဆောင်ရွက်တော် မူကြပါလျှင် ဤသာသနာတော်ကြောင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်သည် ကမ္ဘာတည်းဟူသော ပြာသာဒ်ကြီးအတွက် ထုပိကာသဖွယ် တင့်တယ်လှပ၍ သာသနာတော်မှာ တုရင်မှန်ကင်းအလား ဝင်းထိန် တောက်ကြွားလျက် ငွားငွားစွင့်စွင့် တင့်တယ်ကြီး တင့်တယ်လိမ့်မည် ဖြစ်ပါသည်ဘုရား။

**သာရာဂါ အနာဂါရာ စ, ဥဘော အညောညနိဿိတာ၊**

**အာရာဓယေန္တု သဒ္ဓမ္မံ, ဘုဇိဿံ ဥဿိတဓ္ဓဇံ။**

# ဆဋ္ဌသင်္ဂါယနာနှင့်အရှင်ဇနကာဘိဝံသ

## တင်ရခြင်း၏အကြောင်းရင်း

ဆဋ္ဌသင်္ဂါယနာကိစ္စကြီးအတွက် "ဆဋ္ဌသင်္ဂီတိ ဩဝါဒါစရိယသံဃနာယကအဖွဲ့."နှင့် "ဆဋ္ဌသင်္ဂီတိ ဘာရနိတ္ထာရကသံဃာ့အဖွဲ့."ဟူ၍ အခြေခံအဖွဲ့ကြီး များ ပေါ်ပေါက်လာပြီးနောက် ယင်းအဖွဲ့ကြီးများက ဆဋ္ဌသင်္ဂါယနာတင်လိုခြင်း၏ အကြောင်းရင်းများကို အောက်ပါအတိုင်း ဖော်ပြတော်မူကြသည်။

၁။ *မြတ်စွာဘုရား ဟောကြားတော်မူအပ်သော နိကာယ်ငါးရပ် ပိဋကတ်တော်တို့မှာ အထပ်ထပ် အဆင့်ဆင့် ရေကူးကြရာ၌ သတိမှောက်မှား အနည်းငယ် တိမ်းပါးချွတ်ချော်မှုများ ရှိကြရာ မှန်ကန်သန့်စင်အောင် သုတ်သင်လိုခြင်း၊

၂။ ထိုမှန်ကန်သန့်စင်သော ပိဋကတ်တော်တို့ကို စက်တင်ပုံနှိပ်၍ ဆဋ္ဌသင်္ဂါယနာတင်ပြီးလျှင် ကမ္ဘာအရပ်ရပ်သို့ ဖြန့်ကာ ကြာရှည်စွာ တည်တံ့ စေလိုခြင်း၊

၃။ ဗုဒ္ဓသာသနာတော်ကြီးကို မြန်မာနိုင်ငံနှင့်တကွ ထေရဝါဒဗုဒ္ဓဘာသာနိုင်ငံအားလုံးက ဝိုင်းဝန်း အားပေး ချီးမြှောက်စေလိုခြင်းဟူ၍ ဖြစ်သည်။

## အယူအဆများ မတူမျှခဲ့

ဤတွင် အရှင်ဇနကာဘိဝံသဆရာတော်ကမူ "ဤအကြောင်းပြမှုဖြင့် ကျေနပ်ဖွယ်မဟုတ်သေး၊ ပြည့်စုံပြီဟု မဆိုနိုင်သေး၊ ဤအကြောင်းပြများသည် ပိဋကတ်တော်မူ မှန်ကန် သန့်စင်ရေးကိစ္စမျှသာ အဓိက ဖြစ်သေးသည်၊ စင်စစ်မှာ ပိဋကတ်တော်များ သန့်စင်နေရုံမျှဖြင့် ဘုရားအလိုတော်ကျ ပြည့်ဝပြီဟု

* ဆဋ္ဌသင်္ဂါယနာလုပ်ငန်းစဉ်ဥပဒေသကထာ (နှာ-၈)

မဆိုနိုင်သေးပါ၊ ပိဋကတ်တော်များ သန့်နေသလို ပိဋကတ်အတိုင်း ကျင့်ကြံနေထိုင်ကြသော သာသနာ့ဝန်ထမ်းပုဂ္ဂိုလ်များလည်း သန့်နေမှသာ ရှင်တော်ဗုဒ္ဓက ကျေနပ်တော်မူနိုင်ပါလိမ့်မည်၊ ထို့ကြောင့် ပထမ ဒုတိယ တတိယသင်္ဂါယနာများတုန်းကလို အယူဝါဒအားဖြင့်လည်းကောင်း၊ ဝိနည်းကျင့်ဝတ်အားဖြင့်လည်းကောင်း မသန့်စင်သောပုဂ္ဂိုလ်တို့ကို သန့်စင်ကုန်အောင် ဆောင်ရွက်ပါမှ သင်္ဂါယနာတင်ရကျိုး ဖြိုးဖြိုးကြွယ်ကြွယ် ထိထိမိမိ ရရှိပါမည်၊ သို့ဖြစ်၍ (၁) သာသနာ့ဝန်ထမ်းပုဂ္ဂိုလ်များ သန့်စင်ရေး၊ (၂) ပိဋကတ်တော်များသန့်စင်ရေးဟူ၍ အဓိကရည်ရွယ်ချက်ကြီး နှစ်မျိုးထားပြီးလျှင် ဆောင်ရွက်တော်မူကြပါရန် တင်ပြလျှောက်ထားသည်။

ဤသို့လျှင် အရှင်ဇနကာဘိဝံသက သင်္ဂါယနာ၏ အဓိပ္ပာယ်ကို လေးလေးနက်နက် ခံယူထားသည်၊ အများကလည်း ဤသို့ပင် ခံယူစေချင်သည်၊ "သင်္ဂါယနာ"ဟူ၍ အမည်ခံရုံကျင်းပသောပွဲကြီးမျိုး မဖြစ်သင့်၊ အစဉ်အလာကလည်း ထိုသို့ ကျင်းပရိုးမရှိခဲ့၊ လူ့ဘဝပေါင်း ဆယ်သက်မှ တစ်ခါ၊ ကိုးသက်မှ တစ်ခါ ကြုံချင်မှ ကြုံနိုင်သည့် ပွဲကြီးမျိုး ဖြစ်သည်၊ နှစ်ပေါင်း ၂၅၀၀ ခန့်အတွင်းမှာ ငါးကြိမ်လောက်သာ ကျင်းပခဲ့ဖူးသေးသဖြင့် အနှစ်ငါးရာ ကြာမှ တစ်ကြိမ်ကျလို ဖြစ်ခဲ့သည်၊ ယခု (၆)ကြိမ်မြောက် ကျင်းပလျှင် အနှစ်လေးရာကျော်မှ တစ်ကြိမ်ကျလို ဖြစ်ပေလိမ့်မည်၊ ဤသို့ ဖြစ်တော့်ဖြစ်ခဲ ကြုံတော့်ကြုံခဲ ပွဲကြီးမျိုးတွင် ပီပီပြင်ပြင် ဗုဒ္ဓအလိုတော်ကျ ပြည့်ဝနိုင်သမျှ ပြည့်ဝအောင် ဖြစ်စေချင်သည်၊ သို့သော်လည်း အများကမူ "ပိဋကတ်တော်သန့်စင်ရေး တစ်မျိုးကိုသာ ဝိုင်းဝန်း၍ အာရုံ စူးစိုက်ကြတော့၏။

## ရှေးရှည်စံစီမံကိန်းချမှတ်ပါ

## သာသနာ့ဥယျာဉ် လန်းရွှင်စိမ်းစိုဖို့

ထို့ပြင်လည်း ဆရာတော်အရှင်ဇနကာဘိဝံသက တင်ပြပြန်သေး၏၊ "မြန်မာပြည် မြေမျက်နှာပြင်ကြီးသည် သာသနာတော်ဥယျာဉ်၊သာသနာတော်သစ်ပင်များကိုသာစိုက်ပျိုး၍ စိမ်းလန်းစိုပြည် ဝေဝေဆာဆာ ရှင်သန်ကြီးပွားနိုင်ပါသည်၊ အခြားသော သစ်ပင်မျိုးကို စိုက်ပျိုး၍ မကြီးပွားနိုင်ပါ၊ ယခုအခါတွင် အခြေအနေအရ စစ်ဘေးစစ်ဒဏ်များနှင့် ကြုံရ၍သာ သာသနာတော်ဥယျာဉ်ကြီး စိမ်းလန်းစိုပြည်မှု နည်းပါး၍ ခြောက်သွေ့မှုများ ပေါ်နေရခြင်းဖြစ်ပါသည်၊ ဤအခြေအနေကို ယခုနှယ်က စတင်၍ တက်ညီလက်ညီ ဝိုင်းဝန်းပြီး ရေလောင်းခြင်း၊ ပေါင်းသင်ခြင်း၊ မြောင်းထွင်ခြင်း၊ ဖယ်ရှားခြင်း စသော စောင့်ရှောက်မှုတို့ကို ပြုလုပ်ပေးလိုက်ပါလျှင် မကြာသော အချိန်အတွင်း စိမ်းလန်းစိုပြည် နဂိုနေအတိုင်း ပြန်လည် တွေ့မြင်နိုင်ဖို့ အခွင့်အလမ်း ရှိပါသေးသည်။

ထို့ကြောင့် လိုရင်းကို လျှောက်ထားရပါလျှင် ယခုသင်္ဂါယနာတင်ပွဲ၌ မြန်မာပြည်အတွင်း တိုင်း၊ ခရိုင်၊ မြို့နယ်၊ ကျေးရွာအနှံ့ ပြန့်ပြန့်ကျယ်ကျယ် အရည်အချင်းရှိသော သံဃာတော်များကို စုနိုင်သမျှ စုအောင် ရန်ကုန်သို့ ပင့်ရပါမည်၊ ထိုသံဃာတော်များဖြင့် ပိဋကတ်တို့ကို သုတ်သင်ပြီးလျှင် သင်္ဂါယနာတင်ကြပါမည်။

၁။ ဤပွဲကြီးတွင် ပိဋကတ်တော်တို့ကို သုတ်သင်၍ မူသန့်အောင် ပြုလုပ်ရုံသာမက...

၂။ ယခုခေတ် စာသင်နည်း စနစ်များကိုလည်း (နှောင့်နှေးနေပြီဖြစ်၍) လွယ်ကူအောင် စုပေါင်းပြုပြင်ကြရပါမည်။ (အချို့ကျမ်းစာများ တူရာတူရာကို ပေါင်းပစ်ရပါမည်။)

၃။ စာသင်တိုက်များကိုလည်း ကျေးရွာ၊ မြို့နယ်၊ ခရိုင်၊ တိုင်းဟူ၍ လေးဆင့် ခွဲထားပြီးလျှင် ကျေးရွာအဆင့်မှာ ပရိယတ္တိမူလတန်းကျောင်း၊ မြို့နယ်မှာ အလယ်တန်း၊ ခရိုင်မှာ အထက်တန်းနှင့် တိုင်းမှာတော့ ပါဠိတက္ကသိုလ် ဤကဲ့သို့ ခွဲထား၍ အဆင့်ဆင့် သင်သွားနိုင်အောင် ဤပွဲကြီးက တစ်ခါတည်း စီမံပေးရပါမည်။

## ယဉ်ကျေးမှုသင်တန်းများချပို့

ထို့နောက် ထိုသံဃာတော်အရှင်မြတ်များ သင်္ဂါယနာတင်ပြီးသောအခါ ကျွမ်းကျင်သောဆရာတော်ဘုရားကြီးများက ပို့ချပေးသော ဝိနည်းသင်တန်းကို ဆက်လက်တက်ကြရပါဦးမည်၊ အားလုံးကိစ္စပြီး၍ မိမိတို့ဒေသသို့ ပြန်လည်ကြွလာသောအခါ မိမိတို့ကိုယ်တိုင်လည်း ဝိနည်းနှင့်အညီ အစွမ်းကုန် နေထိုင်ကြရပါမည်၊ နယ်သူ နယ်သားတို့အားလည်း ကိုယ်ကျင့်စာရိတ္တသင်တန်း, ယဉ်ကျေးမှုသင်တန်းတို့အပြင် (ဝိနည်းနှင့်မဆန့်ကျင်သော) ကြီးပွားရေးသင်တန်းတို့ကိုပါ ပို့ချပေးရပါမည်။

ဤသို့သာ ... သာသနာ့ဝန်ထမ်းသားတို့က တက်တက်ကြွကြွနှင့်မြန်မာပြည်အတွင်းမှာ ကိုယ်စီကိုယ်င ကြိုးစားပေးလိုက်ကြပါလျှင် မကြာတော့သော အနှစ် ၂၀ အတွင်းမှာ စိမ်းလန်းစိုပြည်သော သာသနာတော်ဥယျာဉ်ကြီးကို ပြန်လည်ပြီး မြင်ရမှာ အမှန်ပင် ဖြစ်ပါသည် ဘုရား" ဟု လျှောက်ထားတင်ပြတော်မူ၏။

## ကိုယ်စီကိုယ်င အလုပ်ရှိပါမှ

ဆရာတော်က... "သာသနာတော်ဥယျာဉ်ကြီး ညှိုးနွမ်းလာပါပြီ"ဆိုရာ၌ သာသနာ့နယ်ပယ်အတွင်းမှာ ဝိနည်းလိုက်နာကျင့်သုံးသူတွေ နည်းပါးလာခြင်း, ကိုယ်ကျင့်စာရိတ္တပျက်ပြားသူတွေ များပြားလာခြင်း, သာသနာတော်ဥယျာဉ်အရိပ်ကို အချောင်ရ၍ ခိုနေကြခြင်း, ကိုယ့်ဆိုင်ရာအလုပ်ကို မလုပ်ကြတော့ခြင်း, ထို့ကြောင့် သာသနာအတွက် တိုင်းပြည်မှာ ဝန်တက်နေသလို ဖြစ်လာခြင်း, သာသနာကို အပိုဟု အချို့လူတို့ထင်လာခြင်း, အချို့သာသနာ့ဝန်ထမ်းသားတို့ကြောင့် သာသနာတော်ကြီးအပေါ် အများက အထင်သေး အမြင်သေး ဖြစ်လာကြခြင်းကို ဆိုလိုတော်မူပါသည်။

ဤသည်တို့ကို ဆရာတော်အရှင်ဇနကာဘိဝံသက ခံပြင်းနေခြင်း ဖြစ်ပါ၏၊ "ဒါဟာ သာသနာ့ဝန်ထမ်းသားတွေရဲ့အပြစ်ပဲ, သာသနာ့ဝန်ထမ်းသားတွေဟာ ကိုယ့်အလုပ် ကိုယ်မလုပ်ကြလို့ဖြစ်ရတာ, သာသနာကြီးက ပျက်တာ မဟုတ်ဘူး၊ ဝန်ထမ်းသားတွေက ပျက်လာတာ၊ ဒါကို အချိန်မီမပြုပြင်နိုင်ရင် မှောသွားမှာပဲ၊ ပြုပြင်နိုင်ရင်တော့ အထိုက်အလျောက် ပြန်တက်လာနိုင်သေးတယ်၊ ကဿပဘုရားရှင်ရဲ့ သာသနာနောက်ပိုင်းတုန်းကလည်း ဒီလိုပဲဖြစ်ခဲ့ဖူးတယ်၊ အဲဒီတုန်းကလည်း လုံ့လ ဝီရိယရှိတဲ့ သူတော်ကောင်းတွေ ဝိုင်းဝန်း လှုံ့ဆော်ပြုပြင်လိုက်ကြတော့ သာသနာတော်ဟာ အတော်ကြီး တည်ငြိမ်အောင် ပြန်ပြီး ကောင်းလာခဲ့ဖူးတယ်" ဤသို့စသည်ဖြင့် ဆရာတော် အရှင်ဇနကာဘိဝံသက ပြောကာ ပြောကာ "မြန်မာပြည် မြေပေါ်မှာ အားတက်သရောနှင့် ကိုယ်စီကိုယ်င တက်ညီလက်ညီသာ ပြင်လိုက်ကြပါလျှင်"ဟူသော စကားကို ခပ်တွင်တွင်ကြီး သုံးနေတော်မူခြင်း ဖြစ်ပေသည်။

## ဝိနည်းရှိမှ သာသနာတည်

"သာသနာတော်"ဆိုသည်မှာ ဝိနည်းထွန်းကားနေမှုကို ဆိုလို၏၊ ဝိနည်းသာလျှင် သာသနာတော်၏ အသက်ဖြစ်၏၊ ဝိနည်းသာလျှင် ကိုယ်ထည်, ဝိနည်းသာလျှင် အဝတ်အစား, ဝိနည်းသာလျှင် အဆင်တန်ဆာ, ဝိနည်းသာလျှင် အလှအပဖြစ်၏။

ထို့ကြောင့် ဝိနည်းသည် သာသနာတော်အတွက် အဓိကအချက်ဖြစ်သည်၊ ထိုအဓိကအချက်ဖြစ်သော ဝိနည်းကို နုတ်ယူထားလိုက်ပါလျှင် (ဖယ်ရှားထားလိုက်ပါလျှင်) အဘယ်မှာ သာသနာဆိုတာ ရှိပါတော့မည်နည်း။

မြင့်မြတ်သော အကျင့်သိက္ခာ, မြင့်မြတ်သော သာသနာ ရှိနေသောကြောင့်သာ လူတို့က အမွန်အမြတ် တလေးတစား ဦးထိပ်ပေါ် တင်ထားနေကြခြင်း ဖြစ်ပေသည်၊ ထိုအကျင့်သိက္ခာများ မရှိဘူး

ဆိုပါလျှင် (ဝိနည်းတန်ဆာကို ဆင်မြန်း မထားဘူး ဆိုပါလျှင်) မိမိတို့ထက် ပို၍ မထူးသော သာသနာ့ ဝန်ထမ်းသားတို့ကို လူတို့က အဘယ်မှာလျှင် ရိုသေတော့အံ့နည်း၊ အဘယ်မှာလျှင် ဦးခေါင်းပေါ်၌ တင်ထားတော့အံ့နည်း၊ ဤအချက်ကို ထောက်ရှုခြင်းအားဖြင့် "ဝိနည်းကျင့်ဝတ်ကို စောင့်ထိန်းလိုက်နာသူများ ရှိမှသာ သာသနာ တည်သည်, သာသနာ ထွန်းကားသည်"ဟု ဆိုထိုက်ကြောင်း သိနိုင်ပါသည်။

## သာသနာထွန်းကားသည်ဟု ဆိုနိုင်မည်လော?

ဝိနည်းကျင့်ဝတ်မပါဘဲ အရေအတွက်များပြား၍ ဦးရေတိုးပွားနေခြင်းကို "သာသနာထွန်းကားသည်" ဟု မဆိုနိုင်ပါ၊ တတိယသင်္ဂါယနာ မတင်မီအချိန်တုန်းကလည်း သာသနာဝင်ဦးရေတွေ အဆမတန်များပြားလာခဲ့ဖူးသည်၊ သို့သော် သာသနာတော်ကို ကြည်ညို၍ ဝိနည်းကျင့်ဝတ်အတိုင်း ကျင့်သုံးလို၍ မဟုတ်၊ လာဘ်လာဘအရေးကြောင့်သာ လာဘ်လာဘပေါများသော သာသနာတော်ဥယျာဉ်အရိပ်ကို ခိုလှုံလို၍ များပြားလာကြခြင်း ဖြစ်သည်။

ထို့ကြောင့် များတိုင်းအမှန်မဟုတ်၊ နောက်တစ်ချက်...ဇရပ် တန်ဆောင်း ဂူ ကျောင်း ပြာသာဒ် အရပ်ရပ် ဘုရားပုထိုး အမျိုးမျိုး တိုးပွားစည်ပင်အောင် ဆောက်လုပ်နေရုံမျှဖြင့်လည်း "သာသနာထွန်းကားနေပြီ"ဟု မဆိုသာသေးပါ၊ ယင်းတို့သည် အကူအညီအထောက်အပံ့မျှသာ ဖြစ်ကြသေးသည်။

ကမ္ဘောဒီးယားနိုင်ငံ၌ ကမ္ဘာ့အလယ်တွင် ထည်ထည်ဝါဝါ အံ့ဖွယ်တစ်ပါးဖြစ်သော "အန်ကောဝပ် ဘုရားကျောင်းတော်ကြီး"တို့, အင်ဒိုနီးရှားပြည် ဂျာဗားကျွန်း၌ မည်သူမျှ မန္တိုင်းယှဉ် မတုပနိုင်သော "ဗိုရိုဗူဒိုစေတီတော်ကြီး"တို့ ရှိနေကြပါ၏၊ အာဖဂန်နစ္စတန်ပြည်တွင်လည်း ဗုဒ္ဓရုပ်တုတော်များ အခိုင်အမာ ကျောက်တောင်များတွင် ထုလုပ်လျက် တစ်ပြည်လုံး အနှံ့ပင် ယနေ့တိုင် ရှိနေကြသည်၊ သို့သော် ယနေ့ခေတ်တွင် ထိုဝန်းကျင်၌ ဗုဒ္ဓဘာသာများ ရှိကြသေး၏လော? ပြောပလောက်အောင် မရှိကြတော့ပါ၊ တစ်ပါးသောဘာသာဝင်တို့ ဝင်ရောက်လွှမ်းမိုးနေကြလေပြီ၊ ထို စေတီကြီး, ထို ကျောင်းတော်ကြီး, ထိုရုပ်တုတော်ကြီးများ ရှိနေသည့်အတွက် "သာသနာကြီး ထွန်းကားနေသည်"ဟု ဆိုနိုင်ပါမည်လော? မဆိုနိုင်ပါ၊ ထိုအရာတို့သည် အပြင်ပန်းရုပ်ဝတ္ထုများသာ ဖြစ်ကြပါ၏၊ စင်စစ်မှာ "ဝိနယေ ဋ္ဌိတေ, သာသနံ ဋ္ဌိတံ"အတိုင်း အတွင်းပိုင်း ဝိနည်းတရားကျင့်ဝတ်များ ပြန့်ပွားတည်တံ့မှသာ သာသနာ တည်တံ့သည်ဟု ဆိုနိုင်ပါမည်၊ အပြင်ပိုင်းဝတ္ထုတို့ကား အားမကိုးလောက်ပါ။

**ယံကိဉ္စိ ဗာဟိယံ ဝတ္ထု, ယထာကာမံ ပဝဍ္ဎတု၊**
**အဇ္ဈတ္တမှိ အဝဍ္ဎမှိ, အဝဍ္ဎော ဇိနသာသနေ။**

ဆိုလိုသည်မှာ "အပြင်ပိုင်းရုပ်ဝတ္ထုတွေအနေနှင့် ကြီးကျယ်ချင်သလောက် ကြီးကျယ်ပါစေ, (ဘယ်လောက်ပဲ ကြီးကျယ် ကြီးကျယ်) အတွင်းပိုင်း (သီလ သမာဓိ ပညာဆိုတဲ့) ကျင့်ဝတ်တရားများ (သာသနာ့ဝန်ထမ်းသားတို့ရဲ့သန္တာန်မှာ) မကြီးပွားသေးသမျှ တော့ သာသနာမှာ ကြီးပွားပြီ, ထွန်းကားပြီဟု မဆိုနိုင်သေးပါ"ဟူ၍ ဖြစ်၏။

ထို့ကြောင့် "သာသနာတော်ကြီး ထွန်းကားစေချင်တယ်, သာသနာတော်ကြီး တိုးတက်စေချင်တယ်, သာသနာတော်ကြီး အရှည်ခံ၍ တည်တံ့ပြန့်ပွားစေချင်တယ်, သာသနာတော်ကြီးကို ချီးမြှောက်မယ် ဆိုလျှင်တော့ သီလ သမာဓိ ပညာ သိက္ခာသုံးပါး ဝိနည်းကျင့်ဝတ်များ လေးစား လိုက်နာသူတွေ ပေါ်အောင် များအောင် ရွက်ဆောင်ရမည်"ဟု ဆိုလိုပါ၏၊ "ဒါမှ သာသနာ"ဟု အားရပါးရ ခိုင်ခိုင်မာမာ ဆိုလိုပါသတည်း။

# သာသနာတော်အရေး ရင်မအေးနိုင်

## ရင်တမမနှင့်စိတ်မအေးနဲ့

အရှင်ဇနကာဘိဝံသမှာ...သာသနာတော်နှင့် ပတ်သက်လာလျှင် ဘာသိဘာသာ မနေတတ်၊ ကိုယ်ပိုင်ပစ္စည်း (တစ်ဦးတည်းပိုင်ပစ္စည်း)ကဲ့သို့ ရင်းနှီးစွာ သဘောထားတော်မူတတ်၏၊ သံယောဇဉ်ကြီးတော်မူသည်၊ "သာသနာ့အရေး...ငါ့အရေး" ဟူသကဲ့သို့ စိတ်ပူပင်တတ်၏၊ သာသနာတော်ကြီး ညှိုးမှိန်မည်ကို စိုးရိမ်တော်မူ၏၊ သာသနာတော်ကြီး လျှော့သက်မည်ကို ရင်တမမ စိတ်မအေးနိုင်ရှာ၊ ထို့ကြောင့် ... အနာဂတ်တွင် ဖြစ်လာနိုင်သော အခြေအနေ, အတိတ်အခြေအနေတို့ကို အမြဲတမ်း သုံးသပ်လေ့ရှိတော်မူ၏။

သုံးသပ်တွေ့ရှိသော အချက်အလက်တို့ကို မှတ်သား၍ အများ သိထိုက်သောအရာဖြစ်လျှင် အများသိနိုင်အောင် ဖော်ထုတ်၏၊ ပြုပြင်ရနိုင်သမျှ ပြန်လည်ပြုပြင်နိုင်ရန် အချိန်မီသတိပေး၏၊ နှိုးဆော်၏၊ မိမိကိုယ်တိုင်လည်း ပြုပြင်ရေးလုပ်ငန်းများဖြင့် ရှေ့ဆောင်ရှေ့ရွက် အလုပ် လုပ်ပြတော်မူ၏၊ အများကိုလည်း တိုက်တွန်းတော်မူ၏၊ အဘိဓမ္မာသဘောတွင် ဦးဆောင်ဦးရွက် လှုပ်ရှားရှေ့ဆောင်နေတတ်သော "စေတနာ"ကဲ့သို့ တင်စားရပေတော့မည်၊ သာသနာတော်ကြီးနှင့် ပတ်သက်၍ ဆရာတော် စိတ်မအေးနိုင်ပုံကို "ရုပ်ပုံရှင်ကျင့်ဝတ်" နိဂုံး၌ ရေးသားဖော်ပြထား၏၊ ထိုစာအုပ်မှယူ၍ မူရင်း အတိုင်း ဖော်ပြလိုက်ပါသည်။

## နိဂုံးကမ္ပတ်အုပ်ချိန်ကား

ဤရုပ်ပုံရှင်ကျင့်ဝတ်၏ ကျမ်းပြီးနိဂုံးကို ကမ္ပတ်ဖုံးချိန်ကား(သာသနာနှစ် ၂၄၉၇, ကောဇာသက္ကရာဇ် ၁၃၁၅ ခုနှစ် တပို့တွဲလဆန်း ၈ ရက်) ဆဋ္ဌသင်္ဂါယနာတင်ရန် စီစဉ်ရေးအတွက် ဩဝါဒါစရိယနှင့် ဝန်ဆောင်ဆရာတော်များ မီးရထားဖြင့် မန္တလေးမှ ရန်ကုန်သို့ ကြွသွားနေချိန် ဖြစ်၏။

ရထားလမ်း တစ်လျှောက်၌ မြို့နယ်ဆိုင်ရာ အရာရှိကြီးများနှင့် နယ်သူနယ်သား လူအများတို့ အားရဝမ်းသာ ဆီးကြို ဖူးမြော်၍ ပေးလှူပူဇော်ကြသည်မှာ သာသနာရေးအတွက် အားတက်စရာချည်း ဖြစ်ပါပေသည်။

သို့သော် ယနေ့အတွက် စားသောက်ချင်စဖွယ် အသွယ်သွယ် ရှိနေစေကာမူ နက်ဖြန်သဘက်အရေး မျှော်တွေး၍ စိတ်မအေးရသေးလျှင် ပျော်ရွှင်မြိန်ရှက်စွာ မစားသောက်နိုင်သော မိဘကဲ့သို့ ပြည်ထောင်စုမြန်မာနိုင်ငံတော်၏အစိုးရပိုင်းက ကိုင်းရှိုင်းလေးစားချိန်မှာ တခမ်းတနား ခရီးသွား၍ အများပူဇော်ခံရသော်လည်းတစ်ကွက်ကျော်နှစ်ကွက်ကျော် မျှော်၍ မျှော်၍ ကြည့်သောအခါ သာသနာတော်နှင့် စပ်လျက် မြိန်ရှက်ဖွယ်ရာကို မမြင်ရသဖြင့် လက်ရှိ အပူဇော်ခံရသည်ကိုလည်း ဟန်လှပြီဟု မမှတ်ထင်နိုင်သေးပါ။

## တင်ပြစရာအဖြာဖြာ

ဤနေရာဝယ် ကမ္ဘာ့ပတ်ဝန်းကျင်နှင့်ပြည်တွင်း မငြိမ်မသက်ဖြစ်နေမှုများကို အရေးကြီးသော်လည်း "မီးပြို အများနှင့်"ဖြစ်ရမည့်ကိစ္စဖြစ်၍ မစိစစ်လိုပါ။ သာသနာတော်အတွက် သက်သက်နှင့်ဆိုင်သော လက်ရှိအခြေမှန်ကိုသာ ဝေဖန်တင်ပြလိုက်ပါသည်။

၁။ များစွာသော ကျေးရွာနယ်ပယ်တို့၌ သီတင်းသုံးတော်မူကြသော ဘုန်းတော်ကြီးများ၏ ဩဇာအာဏာသည် မြန်မာဘုရင်များ၏လက်ထက်ကို မဆိုထားဘိ,အင်္ဂလိပ်အုပ်စိုးခိုက်ဖြစ်သော အနှစ် ၄၀ ကျော်လောက်အချိန်က ရရှိနေသလောက်မျှ အရှိန်အဝါမရှိ, သိသိသာသာကြီး ဆုတ်ယုတ်နေလေပြီ၊ ဤအချက်၌ "ရှေးလက်ထက်က ဩဇာရှိ၍ ယခုဘာ့ကြောင့်မရှိရသလဲ"ဟု နက်နက်နဲနဲ စဉ်းစားရပေမည်။

(က) ရှေးက ကျောင်းထိုင်ဘုန်းတော်ကြီးများသည် အနေအထိုင်အားဖြင့် ရပ်သူရွာသား လူအများ၏ လေးစားကျေနပ်လောက်အောင် ဣန္ဒြေသိက္ခာကို ဆောင်တော်မူနိုင်ကြပေသည်၊ ယခုသော်ကား အများအားဖြင့် ထိုသို့ လေးစားကျေနပ်လောက်ပါသေး၏လော။

(ခ) ရှေးက ဘုန်းတော်ကြီးများသည် ရပ်သူရွာသားကလေးများကို ယဉ်ကျေးလိမ္မာအောင်ဆုံးမ၍ အတတ်ပညာကိုလည်း(လုံးလုံးအခမဲ့,တကယ့်မေတ္တာစေတနာဖြင့်) သင်ပေးတော်မူခဲ့ကြ၏၊ ယခုအခါကား ဘုန်းတော်ကြီးများ၏ကျောင်း၌ စာသင်ယူမည့် ကလေးများပင် ရှားပါးနေတော့သည်။

(ဂ) ဘုန်းတော်ကြီးကျောင်း၌ စာသင်ယူမည့် ကလေးများ ရှားပါးခြင်း၏ အကြောင်းမှာလည်း ဘုန်းကြီးများက သင်မပေးလိုကြ၍ မဟုတ်၊ "ဘုန်းတော်ကြီးကျောင်းမှ ထွက်လာသော ကလေးများသည် များသောအားဖြင့် အောက်ကျ နောက်ကျ ရှိကြ၏"ဟု ယူဆ၍ ဘုန်းကြီးကျောင်းထွက် မိဘကိုယ်တိုင်က မိမိသားကို မထားလိုကြတော့ခြင်းကြောင့်ဖြစ်ဟန်တူလေသည်။(ဝမ်းနည်းဖွယ်ကောင်းလေစွ။)

၂။ တစ်ဖန် မြို့ကြီး မြို့ငယ် အသွယ်သွယ်ရှိ ဘုန်းတော်ကြီးများ၏ ဩဇာအာဏာကို စဉ်းစားကြဦးစို့၊ အနည်းငယ်သော ဆရာတော်များမှတစ်ပါး အများအပြား ဘုန်းတော်ကြီးတို့မှာ ဩဇာအာဏာများကို မဆိုထားဘိ, လူကြီး လူကောင်း ဆိုသူများ၏ လေးစားရှိသေခြင်းကိုမျှ ခံရဖို့ ခဲယဉ်းလေတော့သည်၊ ထိုသို့ဖြစ်ရာ၌ အကြောင်းကား အသို့ပါနည်း?

(က) ယခုအချိန်ကား အထက်တန်းစားဟု ဆိုသော ကုန်သည်များနှင့် အစိုးရအမှုထမ်းတို့သည် များ သောအားဖြင့် ဘုန်းကြီးကျောင်းထွက်များ မဟုတ်ကြ၊ တချို့ကမူ ဘာသာခြား စာသင်ကျောင်းထွက်ပင် ဖြစ်ကြသေး၏။

(ခ) ထိုဘာသာခြား စာသင်ကျောင်းထွက်များသည် ငယ်စဉ်ကပင် ဗုဒ္ဓဘာသာတရားဓမ္မ လုပ်ငန်းကိစ္စ ဟူသမျှနှင့် မျက်နှာစိမ်းခဲ့ကြခြင်း, သူတို့ဆရာကြီးများ၏မေတ္တာကရုဏာကို ခံယူခဲ့ခြင်းတို့ကြောင့် ကြီးရင့်သောအခါ ဗုဒ္ဓဘာသာကို မစွန့်သော်လည်း ဗုဒ္ဓဘာသာဝင် အရှင်မြတ်များကို ဆည်းကပ်မိဖို့မှာ လွန်စွာ ခဲယဉ်းတော့သည်၊ ကြုံကြိုက်သော သာမန် ဘုန်းကြီးများကိုသာ ကိုးကွယ် ဆည်းကပ်ကြရသည့်အတွက်လည်း ဗုဒ္ဓဘာသာအပေါ်မှာ လေးနက်သော စိတ်ကို မထားတတ်ကြတော့ချေ။

(ဂ) ယခု လွတ်လပ်ပြီးသော ပြည်ထောင်စု မြန်မာနိုင်ငံတော်၌ကား ထိုဘာသာခြားစကားကိုသာ၍ပင် အားကျပါးကျ သင်ယူနေကြသေး၏၊ ပစ္စည်းဥစ္စာအထက်တန်းကျလေ, ဘာသာခြားကျောင်း၌ အထားများလေ ဖြစ်၏၊ လက်ရှိအခြေအနေကို စဉ်းစားရလျှင်လည်း နိုင်ငံတော်အစိုးရ အဆက်ဆက်သည် ထိုဘာသာခြားပညာတတ်တွေသာ ဖြစ်ဖွယ်ရှိနေပေသည်၊ (သို့ဖြစ်၍ ဘာသာခြား စာပေကို သင်သည့်အတွက် အပြစ်မဆိုသာ, အများဆုံးနှင့် အမြန်ဆုံး တတ်မြောက်နိုင်သော နည်းလမ်းကိုသာ အသီးသီး ရှာဖွေရပေမည်။)

---

**မှတ်ချက်း** ။ ကထာဝတ္ထုဘာသာဋီကာ စာမျက်နှာ-၂၀၊ သာသနမလ ဝိသောဓေတွာ၊ သင်္ဂါယနာတင်တိုင်း တင်တိုင်း သာသနာတော်၌ အညစ်အကြေးကို သုတ်သင်ဖို့ရာ သင်္ဂါယနာတင်ရခြင်းထုံးစံ ဖြစ်သည်၊ သို့သော် စတုတ္ထပေထက်အက္ခရာတင်ရာ၌ကား သာသနမလကို သုတ်သင်ဖွယ်မလိုသောကြောင့် သာသနမလသုတ်သင်ပုံကို ပြတော်မမူဘဲ နောက်နောင်အခါ နှုတ်တက်မဆောင်နိုင်မည့် အရေးကို တွေး၍ ပေထက်၌ အက္ခရာရေးသောအားဖြင့် သင်္ဂါယနာတင်ခဲ့ကြသည်။

**ပဉ္စမသင်္ဂါယနာ** ။ ထိုအချိန်၌ ဒေါင်းဒင်္ဂါးငွေများကို ဆွမ်းဆန်တော်အဖြစ်ဖြင့် လှူဒါန်း၍နေကြသော်လည်း ထိုသာသနမလကို မသုတ်သင်နိုင်ခဲ့ကြ၊ သုတ်သင်လိုသောဆရာတော်အချို့ကလည်း အားပေးသူမရှိ၍ အားမရခဲ့ကြ။

**ဆဋ္ဌသင်္ဂါယနာ** ။ ဆဋ္ဌသင်္ဂါယနာဟု သမုတ်အပ်သော သင်္ဂါယနာအချိန်၌ကား ဒေါင်းဒင်္ဂါး၏ အဆက်ဖြစ်သော ငွေစက္ကူတွေကို အများစုက ရဲတင်းစွာ ကိုင်တွယ်ခံယူနေကြလေပြီ၊ ထိုသာသနမလကိုလည်း မည်သူကမျှ သုတ်သင်ဖို့ရာ မစဉ်းစားခဲ့။ (ဤသို့ ဆရာတော်ကိုယ်တိုင် မှတ်ချက်ရေးခဲ့သည်။)

၃။ တစ်ဖန် မိမိတို့ဘက်သို့ လှည့်၍ကြည့်ပြန်သော် အထိုက်အလျောက် အကြည်ညိုခံရသော ဆရာတော်ကြီးများလည်း သက်ရွယ်တော်ရင့်ညောင်း၍ ဘဝပြောင်းဖို့အရေးနှင့် ဝေးကောင်းမှ ဝေးကြပေတော့မည်၊ ဤအတိုင်းသွားခဲ့ပါသော် ကျေးလက်ရော မြို့ပါ သာသနာ့အရေး စိတ်လေးစရာ ဖြစ်နေပါတော့သည်။

၄။ တစ်ဆင့် စဉ်းစားဖွယ်ရှိသေး၏၊ ဤသာသနာတော် အရှိန်မှေးမှိန်သော်လည်း ပြည်ထောင်စုမြန်မာနိုင်ငံတော်ကား တိုးတက်မည်သာ ဖြစ်ပါမူ သာသနာတော်၏ ကံကြမ္မာကို သာသနာ့ဝန်ထမ်း ရဟန်းတော်တို့သာ ခံကြဖို့ပင် ဖြစ်ပါပေသည်၊ သို့သော် လက်တွေ့အားဖြင့် ထိုသို့ ဟုတ်နိုင်မည် မထင်ပါ။

အနော်ရထာမင်းစော လက်ထက်မှစ၍ အရာရာ ယဉ်ကျေးမှု တိုးတက်ခြင်းသည် သာသနာတော်ကြောင့် ဖြစ်ရကား သာသနာတော် မှေးမှိန်လျှင် တိုင်းပြည်လည်း ကိုယ်ကျင့်မှစ၍ သေးသိမ်ဖို့ လမ်းကသာ များနေပါသည်၊ သို့ဖြစ်လျှင် သာသနာ့အရေးနှင့် တိုင်းပြည်အရေးကို သွေးခွဲသင့်ပါဦးမည်လော။

၅။ "သာသနာတော်၏ အရှိန်အဝါ ဩဇာအာဏာ ဆုတ်ယုတ်ခြင်းသည် နိုင်ငံတော် ဆုတ်ယုတ်ကြောင်းပင် ဖြစ်ပါသည်"ဟူသောဝါဒကို လက်ခံနိုင်ပါမူ သာသနာတော် ဆုတ်ယုတ်ခြင်း၏ အကြောင်းများကို ဖယ်ရှားဖို့ရာ ရဟန်းတော်များ၏ ကိုယ်ကျင့်သိက္ခာများကို ရှေးစနစ်အတိုင်း ဖြစ်နိုင်သမျှ ပြန်ဖြစ်အောင် ကြိုးစားသင့်ပါသည်၊ ဝိနည်းတော်နှင့် မဆန့်ကျင်သော သိပ္ပံ ဝိဇ္ဇာဟူသမျှကိုလည်း ရဟန်းတော်များကိုယ်တိုင် ငွေကြေးအထောက်အပံ့မယူဘဲ ရှေးမှုအတိုင်း သင်ပေးနိုင်အောင် အချိန်ရှိခိုက် လှုံ့လစိုက်သင့်ပါသည်။ (ဤကိစ္စ၌ကား နည်းအမျိုးမျိုး ရှိသောကြောင့် ဤနေရာ၌ အသေးစိတ်မပြလိုတော့ပါ။)

၆။ ထိုအတိုင်း ကြိုးစားသောအားဖြင့် ယောက်ျားလေးများကို ဘုန်းတော်ကြီးများက သင်ပြ၍ မိန်းကလေးများကို သီလရှင်ဆရာများက သင်ပြပေးနိုင်ကြပါမူ ဤမြန်မာနိုင်ငံသည် အဘယ့်ကြောင့် ငြိမ်ငြိမ်သက်သက်နှင့် မတိုးတက်ဘဲ ရှိအံ့နည်း၊ သာသနာ့အရှိန်အဝါသည် အဘယ်မှာလျှင် ဤနိုင်ငံတော်နှင့် ကွဲကွာနိုင်ပါတော့အံ့နည်း။

၇။ ဤသို့ နိုင်ငံနှင့် သာသနာတော် တိုးတက်ရာ တိုးတက်ကြောင်းများတွင် ရဟန်းတော်များ၏ ကိုယ်ကျင့်သိက္ခာ ကောင်းမွန်ပြည့်စုံတည်တံ့ရေးသည်လည်း အပါအဝင်ဖြစ်ပေ၏၊ ထို့ကြောင့် ဤအချက်အလက်တို့ကို လေးလေးနက်နက် စဉ်းစားတော်မူကြ၍ "ငုံးမင်းကိုယ်စီ ပိုက်ကိုချီသလို" ညီညီညာညာ ဤသာသနာတော်ကြီးကို ချီပင့်နိုင်ကြရန် အချိန်မီ တင်ပြနှိုးဆော်အပ်ပါသည်" စသည်ဖြင့် ရေးသား တိုက်တွန်းထားပါသည်။

## ၂၅၀၀ ကျော်ရုံကလေးနှင့်မကွယ်သင့်သေး

### ကြိုးစားလျှင် ရနိုင်သောအခွင့်

ယခုအခါ အများက ပြောနေကြ၏၊ "သာသနာတော်ကြီး ဆုတ်ယုတ်နေပြီ, သာသနာတော်ကြီး ရေစုန်မျောတော့မှာပဲ, ရင်မောစရာကောင်းလိုက်ပါဘိ, မုန်တိုင်းထန်တဲ့ ပင်လယ်ထဲကသင်္ဘောကြီးလို ဖြစ်နေပြီ"ဟူ၍ ဆိုကြသည်၊ မှန်ပါ၏၊ မုန်တိုင်းထန်သည်လည်း မှန်ပါ၏၊ သာသနာ့ဘေးရန်တို့လည်း များလှ၏၊ သာသနာတော်သင်္ဘောကြီး ယိမ်းထိုးနေ၏၊ တိမ်းပါးမှောက်လု ဖြစ်နေပြီ၊ ဤအခြေအနေကို ဤအတိုင်းကြည့်၍နေကြမည်လော၊ အားလုံး လက်လျှော့ကြမည်လော၊ စွမ်းအားရှိသမျှ လှုံ့လမပြုကြတော့ပြီလော။

အရှင်ဇနကာဘိဝံသကား... ဉာဏ်စွမ်းသတ္တိကို အရင်းခံ၍ ကြိုးစားသောလုံ့လအားကို တန်ဖိုးထားသော ဆရာတော်တစ်ပါး ဖြစ်၏၊ ငါးရာ့ငါးဆယ်ဇာတ်တော်လာ "မဟာဇနက"မင်းသားကဲ့သို့ ရေဖျားရေဆုံးကို မမြုန်း, ယုံကြည်ချက်ကို မလျှော့လိုချေ၊

ကျွမ်းကျင်စွာပဲ့ကိုင်၍ တက်ညီလက်ညီထိန်းကျောင်းသွားပါလျှင် မုန်တိုင်းတစ်ခွင်မှ မလွတ်နိုင်ပြီလော၊ လွတ်နိုင်သော အခွင့်အလမ်း မရှိတော့ပြီလော၊ ရှိရမည်သာ။

မုန်တိုင်းလည်း ထန်နေ၏၊ သင်္ဘောလည်း ယိမ်းထိုးနေ၏၊ သင်္ဘောသားတို့လည်း စိတ်ဓာတ်ကျ၍ လက်လျှော့နေကြ၏၊ လှံ့လခွန်အားမထုတ်ကြတော့၊ ထိုသို့ဖြစ်လျှင် သင်္ဘောမှာ နစ်ဖို့ သေချာသည်။

ထိုသို့မဟုတ်ဘဲ မုန်တိုင်း ထန်နေ၏၊ သင်္ဘောလည်း ယိမ်းထိုးနေ၏၊ သို့သော် သင်္ဘောသားတို့ကား စိတ်ဓာတ်မကျ၊ လုံ့လခွန်အားစိုက်ကြ၏၊ ကျွမ်းကျွမ်းကျင်ကျင် ပဲ့ကိုင်နေကြ၏၊ သို့ဖြစ်လျှင် ထိုသင်္ဘောမှာ တိမ်းမှောက်ဖို့ ဘေးမှ ကင်းဝေးဖို့ အခွင့်အလမ်းများစွာ ရှိသည်သာ။

## နတ်သိကြားတို့ နေရာတိုင်းမကူနိုင်

ဤသို့ အရေးကြုံလာလျှင် များစွာသောသူတို့က အတွင်းမှာရှိသောအားထက် အပြင်မှာရှိသောအားကို တပ်ကူ တောင်းချင်တတ်ကြ၏၊ ဤအဖြစ်မျိုး သီဟိုဠ်တွင်ကြုံဖူး၏၊ ဗြာဟ္မဏတိဿသူပုန်ဘေးကြီး ဖြစ်လာသည်၊ မြို့ရွာအတွင်းမှာ လူတို့ မနေနိုင်ကြ၊ ပြေးကြလွှားကြ ပုန်းကြခိုကြရ၏၊ ရက်လနှစ်များလည်း တာရှည်လာကြ၏၊ စီးပွားရေးလုပ်ငန်းများလည်း ပျက်ကြ၊ လယ်ယာကိုင်းကျွန်းသို့လည်း မဝင်နိုင်ကြ ဖြစ်တော့သည်၊ ဝေးရာတွင် ဖြစ်သလိုနေကြရတော့၏၊ လူဒါယကာ ဒါယိကာမတို့ကို အမှီပြု၍ နေကြရသော ရဟန်းသံဃာများလည်း လူတို့ရှိရာ တောကြိုအုံကြားသို့ လိုက်ပါကြရ၏၊ လူတို့မှာ သစ်သီးသစ်ရွက် သစ်ဥသစ်ဖုတို့ကိုသာ စားရသောအခါ ရဟန်းတို့လည်း ထိုမျှဖြင့်သာ တင်းတိမ်ကြရ၏၊ ကြာသော် အခက်အခဲဖြစ်လာသည်၊ ကျောင်းကန် ဘုရားတို့လည်း ဖရိုဖရဲ ဖြစ်လာကြကုန်၏။

*ထိုအခါ တန်ခိုးရှိသောရဟန်းတို့က သိကြားမင်းထံ တက်၍ အကူအညီတောင်းကြသည်၊ "ဒကာတော် သိကြားမင်း...အခုဖြစ်နေတဲ့ သူပုန်ဘေးကြီးကို အေးအောင်လုပ်ပေးပါ၊ သာသနာတော်ကြီးပါ အနေခက်သွားပါပြီ"ဟူ၍ ပြောကြ၏၊ သိကြားမင်းက "မှန်လှပါဘုရား၊ ဒီသူပုန်ဘေးကြီးက အထုအထည် အလွန်ကြီးမားပါတယ်၊ ဆိုးလဲ ဆိုးပါတယ်၊ အေးအောင် ဒကာတော်မတတ်နိုင်ပါ၊ အရှင်ဘုရားများ ဒီသီဟိုဠ်ကျွန်းမှာ ဆွမ်းမပြည့်စုံလို့ ဇမ္ဗူဒိပ်အိန္ဒိယဘက်ကို ကူးချင်ရင်တော့ ဖောင်ဒကာ တာဝန်ယူပါ့မယ်၊ မနစ်စေရပါဘူး၊ အကုန်လိုက်နိုင်ပါတယ်" ဟူ၍ လျှောက်ဖူးလေသည်။

ကဲ...တွေ့ကြရပြီမဟုတ်ပါလော, သိကြားမင်းကြီးက "သူမတတ်နိုင်ပါ"တဲ့၊ သူပုန်ဘေးကြီးကို အေးငြိမ်းအောင် သူကိုယ်တိုင် (သို့မဟုတ်) သူ့တပ်သားများဖြင့် ထွက်၍ တိုက်မပေးနိုင်ပါဟု ဆိုနေပြီ၊ အများကထင်နေကြသည်မှာ ဤသို့ ဘေးရန်ကြုံလာလျှင် သိကြား ဗြဟ္မာ နတ်ဒေဝါတို့က (အကြောင်းမဲ့ သက်သက် ရှေ့က စင်၍) ကာကွယ်စောင့်ရှောက်ပေးကြလိမ့်မည်ဟု ထင်နေကြ၏၊ ထို့ကြောင့်လည်း "သာသနမ္ဘိ စ လောကဉ္စ, ဒေဝါ ရက္ခန္တု သဗ္ဗဒါ" ဟု ကြိမ်ဖန်များစွာ ဂါထာရွတ်၍ မန်းနေတတ်ကြသည်၊ အမှန်မှာ ထိုသို့ စောင့်ရှောက်နည်းမျိုးကို မပေးနိုင်ပါ။

## ဝဋ်နှင့်ကံကို မတားမြစ်နိုင်

**မြန်မာပြည်တွင်လည်း အင်းဝတွင် ရှမ်းသိုဟန်ဘွား မင်းပြုဖူး၏၊ သက္ကရာဇ် ၈၈၈ ခုနှစ်က ဖြစ်သည်၊ ထိုမင်းကား အယူကွဲပြား ဘာသာတစ်ပါး ဖြစ်၍ သာသနာကို မကြည်ညို၊ ထို့ကြောင့် သံဃာတော်များကို ဆွမ်းပင့်ကျွေးဟန်ပြုပြီး သုတ်သင်သတ်ဖြတ်လေရာ စာတတ် ပေတတ် ဆရာတော် ၃၀၀ ကျော်လောက် တစ်ပြိုင်နက် ပျံလွန်တော်မူရဖူး၏၊ ပြီးလျှင် စေတီပုထိုးများကို ဖျက်ဆီးသည်၊ စာပေပုရပိုက်တို့ကို မီးရှို့ပစ်သည်၊ ကျန်သံဃာများလည်း ပြေးကြလွှားကြ ပုန်းအောင်းကြရ၏၊ ဆရာတော်ကြီး တစ်ပါးကား...ပုဂံသို့ ရောက်အောင် ပြေးသွားပြီး သီတင်းသုံးနေတော်မူ၏၊ တစ်ချိန်တွင်

* ဝိဘင်္ဂ-ဋ္ဌ၊ ၄၂၃။ ** မြန်မာမင်းအုပ်ချုပ်ပုံစာတမ်း (ဒုတိယအုပ်-နှာ-၁၅၈။)



“ကိုယ့်သာသနာအတွက် ကိုယ့်ဘာသာ ကြိုးစားကြ”

ဂူတစ်ခုထဲ၌ ပဋ္ဌာန်းဒေသနာတရားတော်ကြီး ရွတ်ဖတ် သရဇ္ဈာယ်နေ၏၊ အပြီးတွင် ဂူဝက "သာဓု" ခေါ်သံ ကြားရသည်၊ "ဘယ်သူလဲ"ဟု မေးရာ… "တပည့်တော် သာသနာတော်စောင့်နတ်ပါဘုရား" ဟု လျှောက်၏၊ "သို့ဖြစ်လျှင် သင်ဟာ သိကြားဖြစ်မှာပေါ့" "မှန်ပါတယ်ဘုရား"ဟု ဝန်ခံပြန်၏၊ "ယခု သိုဟန်ဘွားဘေးရန်ကို သင် မသိသလော့? ဘာ့ကြောင့် မကာကွယ်ဘဲ နေရသလဲ"ဟု အပြစ်တင်လေရာ သိကြားက "အရှင်ဘုရား…မြတ်စွာဘုရားသော်မှ ကံအတိုင်းဖြစ်လာသည့် ဝိဋူဋဘေးကို မတားမြစ်နိုင်ခဲ့ပါ, တာဝန်အရ နှစ်ကြိမ် သုံးကြိမ်မျှ တားမြစ်တော်မူပြီးလျှင် ဝဋ်ရှိသည့်အတိုင်း ဖြစ်လာသည့်ဘေးကိုဘုရားကိုယ်တော်မြတ် လျစ်လျူရှုတော်မူရပါသည်၊ အကျွန်ုပ်ကား အဘယ်မှာ တတ်စွမ်းနိုင်ပါမည်နည်း၊… သို့သော် ဤသိုဟန်ဘွားဘုရင် မကြာခင်ရက်ပိုင်းအတွင်း ပျက်စီးတော့မှာပါဘုရား"ဟု လျှောက်ထားသွားသတတ်၊ ဤမျှသာ အသိပေး၍ ကူညီနိုင်တော့သည်။

## ကူညီနိုင်သည့်နည်းလမ်းမှာ

သာသနာတော်ကို ပုထုဇဉ်, အရိယာ, နတ်, သိကြား, ဗြဟ္မာ, ဝိဇ္ဇာတို့က လုံးလုံးမစောင့်ရှောက်သည်ကား မဟုတ်ပါ၊ သူတို့ စွမ်းနိုင်သည့်နည်းဖြင့် စောင့်ရှောက်ကြသည်ကို တွေ့ရတတ်ပါ၏၊ သူတို့ စောင့်ရှောက်နိုင်ပုံမှာ သီလ သမာဓိ ပညာ သစ္စာ မေတ္တာတို့ ပြည့်ဝဖြိုးစင်စွာ ကျင့်သုံး၍ သာသနာတော်အကျိုး အများအကျိုးကို သယ်ပိုးရွက်ဆောင်နေသော ပုဂ္ဂိုလ်များကို အမှီပြုပြီးလျှင် ထိုပုဂ္ဂိုလ်တို့၏ စိတ်ဓာတ်, ထိုပုဂ္ဂိုလ်တို့၏ လုပ်ငန်းများ ထက်မြက်အောင်မြင်အောင် ပြီးစီးလွယ်အောင် အကူအညီပေးနည်းမျိုးကိုသာ တွေ့ကြရပါလိမ့်မည်။

ထို့ကြောင့် သာသနာပြုဖို့အင်အားသည် အပြင်မှာ ရှိသည်ထက် မိမိတို့ သာသနာအတွင်းမှာရှိသည့်အားက ပို၍ကြီးမားကြောင်းကို သိနိုင်ပါ၏၊ မိမိတို့ အရည်အချင်း ညီညွတ်၍ အလုပ် လုပ်ကြဖို့သာ လိုရင်းဖြစ်သည်၊ သီလ သမာဓိဖြိုးစင်၍ ဝိနည်းကိုယ်ကျင့်နှင့်အညီ နေထိုင်ကျင့်သုံးရေးသည်သာ ပဓာနဖြစ်သည်ကို ဤဖြစ်ရပ်များက ဖော်ပြနေပါတော့သည်။

## ကိုယ့်သာသနာ ကိုယ့်ဘာသာ ဖန်ဆင်း

ဤဝတ္ထုအကြောင်းကလေးများကို မကြာ မကြာ ပြောပြကာ ဆရာတော် အရှင်ဇနကာဘိဝံသကား "ကိုယ့်သာသနာအတွက် ကိုယ့်ဘာသာ ကြိုးစားကြ, အပြင်ကို အားကိုးမနေကြနဲ့, မည်သူ့ကိုမှလဲ မျှော်မနေကြနဲ့, သီလ သမာဓိ ဖြိုးစင်ပါစေ, အစွရေးတွေ ပြောသလိုပဲ… ကမ္ဘာကြီးကို ထာဝရဘုရားသခင် ဖန်ဆင်းတယ်, ဒါပေမယ့် အစွရေးနိုင်ငံကိုတော့ အစွရေးတွေပဲ ဖန်ဆင်းရမှာပဲ…တဲ့, တော်တော် ဟုတ်တဲ့စကား၊ အဲဒီလိုပဲ ဘုန်းကြီးတို့ရဲ့ သာသနာကိုလဲ ဘုန်းကြီးတို့ သာသနာ့ဝန်ထမ်းသားတွေကပဲ ဝိုင်းဝန်းပြီး ဖန်ဆင်းကြရမှာပဲ"ဟူ၍ မိန့်တတ်ပါသည်။

ထို့ကြောင့် မုန်တိုင်းထဲကသင်္ဘောကြီး, ယိမ်းထိုးနေသည့် သင်္ဘောကြီးအတွက် သူများ၏ ကယ်တင်မှုကို မျှော်လင့်နေမည့်အစား မိမိတို့ဘာသာ အချိန်မီ ဝိုင်းဝန်း၍ ထိန်းကျောင်းပဲ့ကိုင်ခြင်းသာ အမှန်ကန်ဆုံး နည်းလမ်းဖြစ်၏ဟု မိန့်တတ်ပါသည်။

သာသနာဟူသည်ကား စောင့်ရှောက် လိုက်နာသူတို့အပေါ်မှာ ရပ်တည်၏၊ သူတော်ကောင်းတွေ များစွာ ရှိ၍ လေးစားလိုက်နာသူတွေ များကြလျှင် သာသနာထွန်းကားသည်၊ တင့်တယ်သည်၊ ဝင့်ထည်သည်၊ အဆုံးအမသာသနာကို မလေးမစား တန်ဖိုးမထားသောအခါတွင်ကား သာသနာညှိုးမှိန်ရ၏၊ နိမ့်လျှောရ၏၊ ဤသို့ စောင့်ရှောက် ထိန်းသိမ်းသူ

ရှိ/မရှိအပေါ်, လိုက်နာလေးစားသူ ရှိ/မရှိအပေါ် မူတည်၍ ငှက်ခါးပျံသလို နိမ့်ချီ မြင့်ချီ ဖြစ်တတ်သည်ကား မမွတာပင်တည်း။

ဤသို့လျှင် ပီပီပြင်ပြင် မြင်တော်မူ၍ ဆရာတော်ကား သီလ သမာဓိ ဖြူစင်အောင်သာ ဦးစွာပထမ ပဓာနထား၍ ကြိုးစားတော်မူ၏၊ နတ် သိကြားဗြဟ္မာ ဝိဇ္ဇာတို့လည်း ကူညီချင်လျှင် ကူညီနိုင်ကြဖို့ရာ လမ်းပေါက်သာအောင် ဖွင့်ပေးတော်မူထားသည်၊ အဓိက မျှော်လင့်တောင့်တ အားကိုးနေသည်ကား မဟုတ်ချေ။

သာသနာတော်ကြီးကား လွယ်လွယ်နှင့် ကွယ်ပျောက်သွားမည် မဟုတ်သေးပါ၊ ကဿပဘုရားရှင် လက်ထက်တော်တုန်းကလည်းသာသနာနောက်ပိုင်း၌ (စောင့်ရှောက်လိုက်နာသူ နည်းပါးစွာဖြင့်) အချိန်ကြာမြင့်စွာ တည်လျက် နေပါသေးသည်၊ ထိုကဲ့သို့ တည်နေသော သာသနာကို ဂုဏ်ဝါမညှိုးဖို့ကိစ္စကား လက်ရှိထိတွေ့နေရသော သာသနာ့ဝန်ထမ်းသားတို့၏ တာဝန်သာ ဖြစ်ချေသည်။

## ဤမျှလောက်ဖြင့် မကွယ်ပသင့်သေး

အများစုက "သာသနာတော်ကြီးဆုတ်ယုတ်လာပြီ, သာသနာတော်ကြီး အားနည်းလာပြီ, မကြာမီ ကွယ်ပျောက်သွားတော့မှာပဲ, သဘောကြီးလို နစ်တော့မှာပဲ"ဟု ရင်တမမနှင့် ပြောကြ၏၊ စိုးရိမ်ပူပန်ကြ၏၊ စင်စစ်ကား "ဆုတ်ယုတ်လာပြီ, အားနည်းလာပြီ"ဆိုသောစကားသာ မှန်ကန်သည်၊ "မကြာမီ ကွယ်ပျောက်တော့မှာပဲ"ဟူသည်ကား မမှန်နိုင်သေးပါ၊ အဘယ့်ကြောင့်ဆိုသော် ယခုမှ သာသနာသက် ၂၅၀၀ ကျော်ကျော်ကလေးမျှသာ ရှိသေးသောကြောင့်တည်း။

မှန်ပါသည်, ဤသာသနာတော်ဖြစ်ပေါ်လာဖို့ရာ လွယ်ကူလှသည်မဟုတ်ပါ၊ ဗုဒ္ဓလောင်းလျာမှာ လေးသင်္ချေနှင့်ကမ္ဘာတစ်သိန်းမျှ ပါရမီတွေ ဖြည့်ခဲ့ရ၏၊ အသက်ပေါင်းများစွာ ပေး၍ စတေးခဲ့ရ၏၊ စည်းစိမ်ပေါင်းများစွာ ပေးလှူခဲ့ရ၏၊ အိုးအိမ်ပေါင်းများစွာ စွန့်လွှတ်ခဲ့ရ၏၊ ဤသို့ ကာလရှည်လျားစွာ တန်ဖိုးကြီးမားစွာဖြင့် လဲလှယ်ပြီးမှ (အထွတ်အထိပ်ဆုံးဖြစ်သော အနစ်နာကို ခံယူရပြီးမှ) ခဲတောင့်ခဲယဉ်း ဗုဒ္ဓတစ်ဆူ ဖြစ်ပေါ်တော်မူလာရပါသည်။

ထိုသို့ ဗုဒ္ဓတစ်ဆူ ပေါ်ပေါက်တော်မူလာမှ ဖြစ်ပေါ်လာရသော သာသနာတော်သည်လည်း ဤမျှအတိုင်းအတာကာလဖြင့် မကွယ်ပသင့်, မကွယ်ပထိုက်သေးပါ၊ ဤသို့ပင် ယုံကြည်အပ်ပါသည်။

စင်စစ်သော်ကား ကွယ်ပျောက်သွားမည်ကို စိုးရိမ်သည်ထက် ညှိုးနွမ်းသွားမည်ကို စိုးရိမ်, ဆုတ်ယုတ်လာမည်ကို စိုးရိမ်, မျက်နှာငယ်လာရမည်ကိုသာ စိုးရိမ်သင့်ကြ၏၊ ထိုသို့ စိုးရိမ်နေမှုဖြင့် တာဝန်ကျေပြီလော၊ မကျေသေးပါ၊ သာသနာအတွက် စိုးရိမ်လျှင် ကြောင့်ကြမဲ့ မနေပါနှင့်၊ စိုးရိမ်လျှင် ဘေးရန်ကို ကာကွယ်ပါ၊ စိုးရိမ်လျှင် သာသနာ့ကျက်သရေကို ဆောင်ပါ၊ စိုးရိမ်လျှင် ညီညာပေါင်းစုပါ၊ စိုးရိမ်လျှင် တက်ညီလက်ညီနှင့် သာသနာအတွက် အလုပ်လုပ်ပါ။

"အချိန်ကား မနှောင်းသေးပါ၊ ကြိုးစားလျှင် ကြိုးစားသလို ပြန်တက်လာနိုင်သော အခွင့်အလမ်းများစွာ ရှိပါသေးသည်"ဟူ၍ ဆရာတော် အရှင်ဇနကာဘိဝံသက ကြွေးကြော်ကာ အမြိတမ်း အားတက်လျက် အလုပ် လုပ်လျက်ပင် ရှိပေသည်။

## အရပ်ဆယ်မျက်နှာကြည့်ဘုဉ်းပေးပါသလား? "ဒါလဲ မဟုတ်, အဲဒါလဲ မဟုတ်"

*တစ်ခုသော နံနက်ခင်းကာလ, နေရာမှာ ရာဇဂြိုဟ်မြို့အထွက် လမ်းဘေးဇရပ်တစ်ခုပေါ်တွင် ဖြစ်သည်၊ မြတ်စွာဘုရား၏ လက်ယာတော်ရံ ပညာဧတဒဂ်ဘွဲ့ထူးရ ဓမ္မသေနာပတိ ထိပ်ခေါင်တင် အရှင်သာရိပုတ္တရာကိုယ်တော်မြတ်ကြီးသည် မြို့တွင်းမှဆွမ်းခံအပြန် တစ်ပါးတည်း ယင်းဇရပ်ပေါ်သို့

---

* သံ-ပါ-ဓ၊ သာရိပုတ္တသံယုတ် – ၂၀၀၊

တက်ခဲ့၏၊ ပြီးလျှင် နံရံကို မှီ၍ထိုင်ကာ ခပ်ငုံ့ငုံ့ ဆွမ်းဘုဉ်းပေးတော်မူနေသည်၊ သပိတ်အတွင်းနှိုက်၍ တစ်လုတ် နှစ်လုတ်မျှ ဘုဉ်းပေးတော်မူကာရှိသေး "သုစိမုခီ"အမည်ရှိသော ပရိဗိုဇ်မတစ်ဦး ရောက်လာသည်၊ ထိုပရိဗိုဇ်မက ကောက်ကာငင်ကာ မေးတော့၏၊ "အရှင်ဘုရား...ဆွမ်းကို အောက်ငုံ့ဘုဉ်းပေးနေပါသလား"တဲ့၊ အရှင်သာရိပုတ္တရာက မေးလိုရင်း အဓိပ္ပာယ်ကို လက်ခနဲ သိတော်မူလိုက်၍ ဆွမ်းဘုဉ်းပေးရင်းပင် ဖြေတော်မူသည်။

"မဟုတ်ပါဘူး ဒကာမ"

"ဒါဖြင့် မော့ဘုဉ်းပေးတာပါလား ဘုရား"

"အဲဒါလဲ မဟုတ်ဘူး ဒကာမ"

"အနို့မို့ရင် အရှေ့ အနောက် တောင် မြောက် အရပ်လေးမျက်နှာကို ကြည့်ဘုဉ်းပေးတာများလား"

"အဲဒါလဲ မဟုတ်ဘူးဟဲ့ ဒကာမ"

"ဒီလိုဆိုရင်အရှင်ဘုရားဟာ ထောင့်လေးထောင့် အရပ်တွေကို ကြည့်ပြီး ဘုဉ်းပေးနေပြီထင်တယ်"

"သင်ထင်တာ တစ်ခုမှ မဟုတ်ဘူးဟဲ့ ဒကာမရဲ့"

## သက်ရှင်းဖို့ လင်းပါဦးဘုရား

"အရှင်ဘုရား ... တပည့်တော်မက မေးတယ်၊ အောက်ငုံ့ဘုဉ်းပေးနေပါသလား"ဆိုတော့ အရှင်ဘုရားက "မဟုတ်ဘူး"တဲ့၊ ဘာကို ရည်ရွယ်၍ ငြင်းတာပါလဲဘုရား၊ ထပ်ဆင့်မေးနေပြန်သည်၊ တော်တော် စပ်စုသည့် *ပရိဗိုဇ်မ၊ ထိုအခါ ကိုယ်တော်မြတ်ကြီးက ဖြေတော်မူရပြန်သည်၊ "အို...ဒကာမ၊ ယခုအခါတွင် အချို့သောရဟန်း၊ အချို့သောပုဏ္ဏားတွေဟာ မြေကြွန်အင်္ဂါအတတ်နဲ့ အသက်မွေးတတ်ကြတယ်၊ (ဒီမြေကြီးက မြေဆိုး၊ မြေစုန်း၊ မြေဘီလူး၊ ဒီမြေကြီးကတော့ မြေကောင်း၊ မြေမှန်၊ ဘူမိနက်သန် မှန်တယ်၊ ဒီမြေမျိုးက ဘူး၊ ဖရုံ၊ ငရုတ်၊ သခွား၊ စပါး၊ ပဲ၊ ပြောင်းစိုက်ဖို့ ကောင်းတယ်၊ ဟိုမြေမျိုးက မကောင်းဘူးစသည်ဖြင့် မြေကြီးဆိုတဲ့ အောက်အရပ်ကို အမှီပြုပြီး အသက်မွေးကြတယ်၊) အဲဒီပုဂ္ဂိုလ်မျိုးတွေကို "အောက်ငုံ့စားတဲ့သူတွေ"လို့ ဆိုထိုက်တယ်၊ ငါက ဒါမျိုးမဟုတ်ဘူး။

"ဒါဖြင့် နောက်တစ်ခုကကော ဘုရား"

"အိမ်း...တချို့ သမဏ ဗြာဟ္မဏတွေဟာ ဂြိုဟ်၊ နက္ခတ်၊ ကြယ်တာရာအတတ်ပညာတွေနဲ့ အသက်မွေးတတ်ကြတယ်၊ (ဒီကြယ်ကြီး မှိန်သွားတယ်၊ ဘာဖြစ်လိမ့်မယ်၊ ဟိုကြယ်ကြီး တောက်ပြောင်လာတယ်၊ ဘာဖြစ်လိမ့်ဦးမယ်၊ ဘယ်ဂြိုဟ်တွေ ဘယ်ဂြိုဟ်တွေ ပူးတယ် ကပ်တယ် ခွာတယ်၊ ဘာဖြစ်နိုင်တယ် စသည်ဖြင့် အထက်ကောင်းကင်အရပ်ကို အမှီပြု အသက်မွေးတတ်ကြတယ်၊) အဲဒီ ပုဂ္ဂိုလ်မျိုးတွေကို "အထက်မော့စားတဲ့သူတွေ"လို့ ဆိုထိုက်တယ်၊ ငါက အဲဒါမျိုးလဲ မဟုတ်ဘူးဟဲ့"။

## လျှာရှည်တယ်လဲ မထင်ပါနဲ့ဘုရား

"လျှာရှည်တယ်လို့ မထင်ပါနဲ့၊ နောက်ထပ် ငြင်းတာကကော ဘုရား"

"အိမ်း...အဲဒါကလဲ အချို့ သမဏ ဗြာဟ္မဏတွေဟာ လူတွေ ခိုင်းသမျှ စေသမျှ တမန်အလုပ်၊ အစေအပါးအလုပ်တွေနှင့် အသက်မွေးတတ်ကြတယ်၊ နီးရာစပ်ရာ ဒကာ ဒကာမတွေက ဟိုမြို့ ဟိုရွာကို သွားပေးပါဦး၊ လာပေးပါဦး စသည်ဖြင့် ခိုင်းတတ်ကြတယ်၊ သူတို့ အသုံးကလေးကတော့ ... ယဉ်ယဉ်ပဲ၊ "အရှင်ဘုရားပဲ တတ်နိုင်ပါတယ်၊ အရှင်ဘုရားပဲ အားကိုးပါရစေ"တဲ့၊ ဤသို့ စသည်ဖြင့် အရပ်လေးမျက်နှာသို့ သူတို့ အလိုရှိရာ အသွားခိုင်းတတ်ကြတယ်၊ သွားပေးခြင်း၊ ဆောင်ရွက်ပေးခြင်းဖြင့် အသက်မွေးတတ်ကြတယ်၊ အဲဒီပုဂ္ဂိုလ်မျိုးတွေကို "အရပ်လေးမျက်နှာကြည့်ပြီးစားတဲ့သူတွေလို့" ဆိုထိုက်တယ်၊ ငါက အဲဒါမျိုးလဲ မဟုတ်ဘူးဟဲ့"

ဒါဖြင့် အရှေ့တောင်၊ အနောက်တောင်၊ အရှေ့

* ပရိဗိုဇ်မ (ပရိဗ္ဗာဇိကာ) = တရားရှာရန် တောထွက်သူ၊ ရသေ့မ။

မြောက်, အနောက်မြောက်ဆိုတဲ့ ထောင့်အရပ်တွေကို ကြည့်ပြီး ဘုဉ်းပေးပါသလားဘုရားလို့ မေးပြန်တော့လဲ "မဟုတ်ဘူး"တဲ့၊ အရှင်ဘုရားက ဒါကကော ဘာကို ရည်ရွယ်ပြီး ငြင်းတာပါလဲဘုရား။

"အိမ်း...ဒါကလဲ သာသနာတော်မှာ အင်္ဂဝိဇ္ဇာအတတ်,ဗေဒင်အတတ်,လက္ခဏာအတတ်, ဆေးကုအတတ်, ဓာတ်ရိုက်ဓာတ်ဆင်အတတ်, အင်းအိုင်ခလှဲ့ လက်ဖွဲ့အတတ်, ဂါထာမန္တရား စုတ်ခြင်းအတတ် စသည်တို့ဟာ သာသနာတော်နှင့် မျက်စောင်းထိုးကျတယ်၊ မသင့်လျော်ဘူး၊ ထောင့်အရပ်တွေနှင့် အလားတူတယ်။

အဲဒီ အတတ်ပညာတို့ဖြင့် အချို့ သမဏ ဗြာဟ္မဏတွေဟာ မှားမှားယွင်းယွင်း အသက်မွေးကြတယ်၊ အဲဒီ ပုဂ္ဂိုလ်မျိုးတွေကို "ထောင့်အရပ်တွေကြည့်ပြီး စားတဲ့သူများ"လို့ ဆိုထိုက်တယ်၊ ငါက အဲဒါမျိုးလဲ မဟုတ်ဘူးဟဲ့၊ ငါက တရားသဖြင့် ဆွမ်းခံရှာမှီးပြီးမှ ဘုဉ်းပေးတဲ့ပုဂ္ဂိုလ်ပဲ"

ဤသို့ အရှင်သာရိပုတ္တရာမထေရ်မြတ်ကြီးက ရှင်းပြ ဖြေဆိုတော်မူလိုက်ရာ ပရိဗိုဇ်မက ထ၍ ခုန်တော့မတတ် မြူးကြွစွာဖြင့် "ဟုတ်လိုက်တာမှ ဘုရား, သိပ်ဟုတ်တာပဲ,သိပ်မှန်တာပဲ၊ တပည့်တော်မကလဲ ဒီအဓိပ္ပာယ်ကိုပဲ ရည်ရွယ်ပြီး မေးတာပဲ၊ အရှင်ဘုရားကလဲ ထိထိမိမိ တိတိကျကျ ဒီအဓိပ္ပာယ်ကိုမှပဲ ဖြေဆိုတော်မူနိုင်ပါပေတယ်"ဟု အားရဝမ်းသာစွာဖြင့် လျှောက်ထားပြီးလျှင် မြို့ထဲတွင် တစ်လမ်းဝင် တစ်လမ်းထွက် ကြွေးကြော်လေတော့၏။

"ရှင်တော်ဂေါတမ သာဝကတွေဟာ တရားမျှတတဲ့ အစာအာဟာရကိုသာ ဘုဉ်းပေးတော်မူကြပါတယ်၊ အပြစ်မရှိတဲ့ အစာအာဟာရကိုသာ ဘုဉ်းပေးတော်မူကြပါတယ်၊ ဒကာ ဒကာမတို့ ... ရှင်တော်ဂေါတမ သာဝကတို့အား တတ်စွမ်းသမျှ လှူကြလောင်းကြပါကုန်လော့" ဟူ၍ ဖြစ်သတည်း။

## သာဓကတင် ပမာပြချင်၍

အရှင်ဇနကာဘိဝံသ ဆရာတော်က အထက်ပါ ဝတ္ထုဇာတ်လမ်းကလေးကို ပမာပြချင်၍ မကြာခဏ ထုတ်ဖော်အမိန့်ရှိတတ်ပါသည်၊ တစ်ခါတလေ နံနက်ခင်းဩဝါဒပေးချိန်တွင်လည်းကောင်း, တစ်ခါတစ်ရံ စာချရင်း အကြောင်းစပ်လာသည့်အခါများတွင်လည်းကောင်း ပြောပြတတ်၏။

ရည်ရွယ်တော်မူရင်းမှာ... မိမိတပည့်များ အစားအသောက် လာဘ် လာဘတည်းဟူသော အကြောင်းကြောင့် မတော်မလျော် မလုပ်မိဖို့, ဘုရားမျက်နှာတော်ကို မထောက် အောက်ကျနောက်ကျ မလုပ်မိဖို့,အထင်သေး အမြင်သေး မဖြစ်စေဖို့ သတိပေးတော်မူလိုရင်း ဖြစ်၏။

"တချို့ မြင်မိပါရဲ့၊ ဝမ်းကလေး တစ်ထွာကြောင့် (သို့မဟုတ်) လျှာကလေး လက်နှစ်သစ်ကြောင့် မအပ်မရာ မသင့်မလျော်တွေလုပ်နေကြတာ၊ ဘုရားမျက်နှာကိုလဲ မထောက်ဘဲ အောက်ကျ နောက်ကျ လုပ်နေကြတာ ဝမ်းနည်းစရာ ကောင်းလှတယ်၊ ဘုန်းကြီးတို့ ငယ်စဉ် စာသင်သားဘဝတုန်းက အဲလိုကိုယ်တော်တွေ မြင်နေရတာပဲ၊ ဒကာ ဒကာမတွေနှင့် တည့်အောင် ပေါင်း, ခိုင်းတာ လုပ်, စေရာသွား, ဆေးကု, ဗေဒင်ဟော, လက္ခဏာကြည့်, ဓာတ်ရိုက်ဓာတ်ဆင် လုပ်ပေး, လူတို့ စီးပွားရေးထဲဝင်ကူ၊ အဲလို ကြည်ဖြူအောင် လုပ်တော့ လှူကြတာပေါ့။

လတ်တလောချင်းတော့ အာစိဏ္ဏယ်လို့ ဆိုကြတာပေါ့၊ အဲလို ကိုယ်တော်မျိုးတွေ ဆွမ်းခံပြန်တဲ့အခါ ကြည့်, သပိတ်ကြီး ပြည့်တဲ့အပြင် ပွေ့လာတဲ့ သပိတ်ဖုံးပေါ်မှာလဲ မုန့်တွေ ပဲတွေ နံ့သာပုဂ္ဂက်ပျောသီးတွေ အဖီးလိုက်, မောက်မောက်လျှံလျှံပဲ။

## စားပေတွေက သတိပေးဆုံးမ

"အဲဒါတွေ အားမကျဘူးလား"လို့ တစ်ဦးဦးက မေးရင် ဘုန်းကြီးလဲ ပုထုဇဉ်မို့ ခင်မင်မက်မောတတ်တဲ့လောဘမကုန်သေးတော့"အားမကျဘူး"လို့တော့ မပြောဝံ့ပါဘူး၊ ဒါပေမယ့် သတိရှိလိုက်တယ်ကွ၊ အသိဉာဏ်က လင်းခနဲ ကွက်ခနဲ ပေါ်လာတယ်၊ ဘယ်လိုလဲဆိုတော့ ဘုန်းကြီးတို့ သင်အံလေ့ကျက်ခဲ့ရတဲ့ အခုနင်တုန်းက သံယုတ် ပါဠိတော်လာ သုစိမုဒီပရိဗိုဇ်မနှင့်အရှင်သာရိပုတ္တရာတို့ မေးခန်းဖြေခန်း ဇာတ်လမ်းကလေးများက အထင်းသား ပေါ်လာတတ်တယ်၊ ပြီးတော့လဲ ဇာတ်အဋ္ဌကထာထဲက ဝတ္ထုတစ်ခု ရှိသေးတယ်၊ ဘာလဲဆိုတော့...

တစ်ခါတုန်းက အိမ်တစ်အိမ်မှာ မဟာလောဟိတ, စူဠလောဟိတ ဆိုပြီး နွားညီနောင်တစ်ရှဉ်းရှိကြတယ်၊ အဲဒီ နွားညီနောင်က အဲဒီအိမ်မှာ အမှုထမ်းကြရတယ်လေ၊ အဲဒီအိမ်မှာ ထွန်စရာရှိရင် သူတို့တာဝန်, လှည်းတိုက်စရာရှိရင်လဲ သူတို့ နှစ်ကောင်,ရေသယ်စရာရှိရင်လဲ သူတို့ချည်း, စီးပွားရေးဟူသမျှ သူတို့နှစ်ကောင်က အဓိက, အဲလောက် ပဓာနကျပါလျက် စားရတဲ့အခါကျတော့ မြက်နှင့်ကောက်ရိုး၊ တစ်ခါတစ်ရံမှသာ ဖွဲနုကလေးပါသတဲ့။

ကျွေးသမျှအစာကို အစ်ကိုဖြစ်သူ မဟာလောဟိတက မညည်းညူတမ်း စားနိုင်ပေမယ့် ညီဖြစ်သူ စူဠလောဟိတကတော့ မျိုမကျအောင် ဖြစ်ရသတဲ့၊ စိတ်ထဲမှာလဲ တစ်စုံတစ်ခု ဘဝင်မကျ ဖြစ်ရသတဲ့၊ "ဘယ့်နှယ်...သာလူက ဆိုတဲ့ ဝက်ကြီးကျတော့ အကောင်းတွေချည်း ကျွေး, သူက ဒီအိမ်မှာ ဘာတစ်ခုမျှ အလုပ် လုပ်ရတာလဲမဟုတ်၊ အဲဒီ သူ့ကိုတော့ ထမင်းနှင့်ဆန်ပြုတ်တွေ နေ့တိုင်းကျွေးတယ်၊ သာလူကကြီးကလဲ နေပူရင် ရွှံ့အိုင်ထဲဆင်း, အစာဝရင် ခုတင်အောက် ဝင်အိပ်ရုံပဲ သူ့အလုပ်က၊ တို့ကျတော့ မြက်နှင့်ကောက်ရိုးမှ အနိုင်နိုင်"

အဲဒီလို မကျေနိုင် မချမ်းနိုင်တွေးရင်း လယ်တောက မောမောနှင့်အပြန် အစ်ကိုကြီးဖြစ်သူကို ပြောမိသတဲ့၊ "ဘယ့်နှယ်လဲ အစ်ကိုရာ...ဒီအိမ်မှာ အလုပ်လုပ်စရာရှိတော့ ကျုပ်တို့ချည်းပဲ, အစားကောင်းကျတော့ သာလူကကိုမှ ကျွေးကြတယ်၊ ဒါဘာသဘောလဲဗျာ"

## အစ်ကိုကြီး၏နှစ်သိမ့်မှု

ဒီတော့ အစ်ကိုဖြစ်သူက ရှင်းပြရှာတယ်၊ ငါ့ညီတဲ့ သာလူကရဲ့ အစားအစာများကို မင်းအားမကျလိုက်ပါနှင့်တဲ့, သာလူက စားနေရသမျှတွေဟာ သေမင်းကို အခွန်ဆက်နေရတာပဲတဲ့၊ တော်တော်မှတ်သားဖို့ ကောင်းတယ်ကွ၊ ဇာတ်တော်ထဲမှာပါတဲ့ သူ့မူရင်းဂါထာကဆိုရင်...

**"မာ သာလူကဿ ပိဟယိ,**
**အာတုရန္နာနိ ဘုဉ္ဇတိ၊**
**အပ္ပေါဿုက္ကော ဘုသံ ခါဒ,**
**ဧတံ ဒီဃာယုလက္ခဏံ"** ... တဲ့။

အဓိပ္ပာယ်က "ညီငယ်တဲ့၊ မင်း သာလူကကြီးရဲ့ အစားအစာတွေကို မမက်မောလိုက်ပါနှင့်တဲ့၊... သာလူကကြီးဟာဆိုရင် ... သေရမယ့်အစာတွေ (သေဖို့ အထောက်အကူပြုတဲ့ အစာတွေ)ကိုပဲ စားနေရတာတဲ့၊ ဒါကြောင့် တို့ အေးအေးဆေးဆေး စိတ်ချလက်ချ ရသမျှ ဖွဲကလေးကိုပဲ စားနေပါကွယ်, ဒါဟာ အသက်ရှည်ဖို့ အကြောင်းပဲ"တဲ့။

မင်း ဒီအိမ်က ဟို အပျိုမလေးကို သတိထားမိရဲ့လား, သူ့ကို တခြားရွာက လူပျိုတစ်ယောက်နှင့် စေ့စပ်ထားပြီးသား၊ အဲ သူတို့ မင်္ဂလာဆောင်ကျရင် သာလူကကြီးရဲ့အဖြစ်ကို မင်းမြင်ရပါလိမ့်မယ်ကွာတဲ့, အစ်ကိုကြီးက ရှင်းပြရှာတယ်။

ဟုတ်ပါတယ်၊ အစ်ကိုကြီး ပြောတဲ့အတိုင်းပဲ၊ မကြာပါဘူး၊ မင်္ဂလာဆောင်တဲ့နေ့လဲရောက်ကရော ခုတင်အောက်က သာလူကကြီးကို ဆွဲထုတ်, ဟင်းလုပ်ဖို့အခေါ်မှာ တအော်အော်နဲ့ ပါသွားရရှာတာကို

---

* တိကနိပါတ်၊ သာလူကဇာတ်–ဋ္ဌ–၃၇၆။

မြင်ရသတဲ့။

ဒီတော့မှ ညီငယ်ဖြစ်သူ စူဠလောဟိတ က သူတို့အတွက် ရရှိတဲ့ မြက်နှင့် ကောက်ရိုးဟာ အပြစ်ကင်းပါပေတယ်၊ "ဒီဃာယုလက္ခဏံ"ဆိုတဲ့အတိုင်း ဒီမြက်နှင့်ကောက်ရိုးဟာ အန္တရာယ် မဖြစ်စေဘူး၊ အသက် ရှည်ဖို့ရာသာ ဖြစ်တယ်၊ သာလူကကြီးရဲ့ အစားအစာ ယာဂုနှင့် ထမင်းတွေဟာ အသက်တိုဖို့ရာ အကြောင်းပဲလို့ ကောင်းကောင်းကြီး သဘောပေါက်ပြီး ကိုယ့်အတွက် ရရှိတဲ့ မြက်နှင့် ကောက်ရိုးကိုပဲ စိတ်ချလက်ချ စားသုံးတော့သတဲ့။

## သေစာတွေ မစားချင်နှင့်

"အေး...မင်းတို့တစ်တွေလဲ ဒီသဘောကို သတိပြုကြပါ၊ အခု ရရှိနေတဲ့ မင်းတို့အတွက် ချဉ်ရည်ဟင်းတို့, စွန်တာနီပဲပြုတ်တို့ဟာ ဒီဃာယုလက္ခဏံပဲ၊ အသက်ရှည်ဖို့ အကြောင်းတွေကွ၊ အသက်ဆိုတာ သာသနာ့သက်ကို ဆိုလိုတာ၊ ဒီအစားအစာတွေကို စားသုံးခြင်းဖြင့် ကျေနပ်မှု ရနေလျှင် သာသနာမှာ အပြစ်မရှိနိုင်ဘူး၊ အသက်ရှည်နိုင်တာပေါ့၊ အဲဒါတွေ လောက်နှင့် မကျေနပ်နိုင်ဘူးဆိုရင်တော့ အဲဒီပုဂ္ဂိုလ်တွေဟာ စောစောက ပြောခဲ့တဲ့ မသင့်လျော်တဲ့ အလုပ်တွေကို လုပ်မိတော့မှာပဲ။

အရှင်သာရိပုတ္တရာ ကိုယ်တော်ကြီး ရှင်းပြတဲ့ သာသနာနှင့် မသင့်တဲ့ အကျင့်တွေလဲ အလိုလို ဝင်လာတော့မယ်၊ ဝင်လာရင် ခဏချင်းအားဖြင့်တော့ အာစိုသလိုလို စားကောင်းသောက်ဖွယ်တွေ ရမှာပဲ၊ ဒါပေမယ့် အဲဒါတွေဟာ "အာတုရန္နာနိ ဘုဥ္ဇတိ" ဆိုတဲ့အတိုင်း သေစာတွေ (သေဖို့အထောက်အကူပြုတဲ့ အစားအစာတွေ) လို့သာ အောက်မေ့ပေတော့၊ ... ဒီပုဂ္ဂိုလ်ဟာ မကြာဘူး, သာသနာမှ ရွေ့လျောပြီး သေတဲ့သဘော ရောက်တော့မှာပဲ"။

ဆရာတော် အရှင်ဇနကာဘိဝံသသည် စာရေးသားရာ၌သာ တစ်ဖက်သား နားလည်အောင် ရေးနိုင်သည်မဟုတ်သေး၊ နှုတ်ဖြင့် ပြောပြ၍ ဩဝါဒပေးရာတွင်လည်း တစ်ဖက်သား လက်ခံချင်လာအောင် တစ်ဖက်သား သဘောပေါက်လာအောင် ပြောပြတော်မူနိုင်စွမ်းရှိ၏၊ မိမိ ပြောပြလိုသော အကြောင်းအရာ အမာခံကျောရိုးကို ဝတ္ထုကြောင်းကလေးများ, ပုံပြင်ကလေးများဖြင့် တန်ဆာဆင်ကာ ပြောပြတော်မူတတ်၏။

ထိုအခါ လက်ခံနားထောင်ရသော ပုဂ္ဂိုလ်တို့လည်း သဘောပေါက်၍ ကျေနပ်မှု ရတော့သည်၊ ဤသည်ကား ဆရာတော်၏ ဟောဟန်, ပြောဟန်, ဆုံးမဟန်တစ်မျိုးပင် ဖြစ်တော့၏၊ ထို့ကြောင့်လည်း ဆရာတော်၏ ဟောပြောဆုံးမ ဩဝါဒ အပေါ်၌လည်းကောင်း, အရေးအသား အပေါ်၌လည်းကောင်း ကျေနပ်မှု ရနေကြခြင်း ဖြစ်ပေသည်။

## ဂိုဏ်းခွဲစိတ်တွေ လျော့ပါးလာခဲ့
## ဂိုဏ်းစွဲစိတ်တွေ နိုဝင်ခဲ့ရခြင်း

ဆရာတော် အရှင်ဇနကာဘိဝံသသည် "အင်္ဂဝဲ" ဆိုကတည်းက ရွှေကျင်ဆရာတော်ဘုရားကြီးတို့၏ အဆက်အနွယ် မထေရ်ကြီးများလက်ထဲမှာ ကြီးပြင်းလာခဲ့ရ၏၊ ထိုမှနောက် ၁၂ နှစ်ကျော် ၁၃ နှစ်လောက်မှာ မန္တလေးမြို့ ဝိသုဒ္ဓါရုံ ရွှေကျင် အဓိပတိ တိုက်ကြီးထဲသို့ တစ်ဆင့် ပြောင်းခဲ့၏။

ထိုအခါ ဘုန်းတော်ကြီး ဦးဉာဏာဘိဝံသ ... (မြောင်းမြဆရာတော်လောင်း) စာချဘုန်းကြီး၏ ခြေရင်းသို့,... ထို့နောက် တစ်ဖန် တောမြိုင်တောင်တန်းတို့ဖြင့် ချမ်းမြေ့လှသော စစ်ကိုင်းတောင်ရိုး မဟာဂန္ဓာရုံ ရွှေကျင်ဆရာတော်ဘုရားတို့၏ အရိပ်ကိုလည်း ခိုလှုံခဲ့ရသည်။

ထို့ကြောင့် ထိုအချိန်ကဆိုလျှင် "တို့ရွှေကျင်မှ တို့ရွှေကျင်"ဟုပင် ထင်ခဲ့သည်။

## ဂိုဏ်းစည်းရိုး ပျက်ပြယ်ခဲ့ပြီ

အရှင်ဇနကာဘိဝံသသည် ၁၈ နှစ်ကျော် ၁၉ နှစ်(သာမဏေဘဝ)မှစ၍ ဆရာဘုန်းတော်ကြီး၏ အစီအမံဖြင့် နိကာယ် ငါးရပ် ပိဋကတ်တော်တွေ အနက်ဉာဏ်ကြီးဖို့အတွက် ပခုက္ကူသို့ ခရီးဆက်ခဲ့ရ၏၊ ပခုက္ကူ မဟာဝိသုတာရာမတိုက်ကြီးထဲတွင် အမြော်အမြင် ကြီးမားတော်မူကြသော, ဣဿာ မစ္ဆရိယ နည်းပါးတော်မူကြသော, မေတ္တာ ကရုဏာ ဓာတ်ဖြင့် စိုပြည်တော်မူကြသော ဆရာတော်ဘုရားကြီးများကို ဖူးတွေ့ရ၏၊ မိဘသဖွယ်ဖြစ်သော ဆရာတော်ဘုရားကြီးတို့၏ အရိပ်ကို ခိုလှုံရ၏၊ စောင့်ရှောက်မှုကိုလည်း ခံယူရ၏၊ ကျောသား ရင်သား မခွဲခြားဘဲ အားလုံးအပေါ် စောင့်ရှောက်တော်မူကြသော ဆရာတော်ဘုရားကြီးများကို ကိုယ်တိုင် တွေ့မြင်နေရသည်။

မိမိကိုပင် ရွှေကျင်မှန်းသိလျက် အဘက်ဘက်မှ စောင့်ရှောက်ချီးမြှောက်တော်မူကြ၏၊ သာသနာတွင် အရာဝင်အောင် အရောင်တင်ပေးတော်မူကြ၏၊ သုံးနှစ်ခန့် စာဆို၍ သုံးနှစ်ခန့် စာချပြီးသောအခါ တစ်ချိန်က စွဲထင်လာခဲ့သော ပြင်းထန်သည့် ဂိုဏ်းစိတ်တို့သည် တဖြည်းဖြည်း လျော့လာခဲ့လေပြီ၊ နှလုံးသားတွင် အကန့်ခြားသကဲ့သို့ဖြစ်သော ဂိုဏ်းစည်းရိုးတို့သည် ပြိုပျက်ခဲ့ရလေပြီ။

## ဂိုဏ်းဂဏက ပဓာနမဟုတ်

ထိုအခါ စဉ်းစားမိသည်မှာ "သာသနာတော်၌ ဂိုဏ်းက ပဓာန မဟုတ်, ကျင့်ကြံမှုကသာ ပဓာန ဖြစ်သည်၊ မြတ်စွာဘုရားကလည်း ... "ငါဘုရား သာသနာတော်၌ ကျင့်ကြံ လိုက်နာမှုသာ ပဓာန ဖြစ်သည်"ဟု ဟောတော်မူ၏၊ လောက၌ နွားနီ, နွားနက်, နွားကျောင်, နွားကြား အရောင်များသည် ပဓာနမဟုတ်, ဝန်ကို ဆောင်နိုင်စွမ်း (ရုန်းနိုင်စွမ်း) ရှိမှုသာ ပဓာနဖြစ်သကဲ့သို့ ငါဘုရား၏သာသနာ တော်၌လည်း ခတ္တိယ, ဗြာဟ္မဏ, ဝေဿ, သုဒ္ဒ မည်သည့်မျိုးမှ လာခဲ့ကြသည်ဖြစ်စေ ကျင့်ကြံ လိုက်နာမှုသာ ပဓာန"ဟု ဟောတော်မူထားသည် မဟုတ်ပါလော။ **(အင်္ဂုတ္တရပါဠိတော် တိက-၁၆၂။)**

"ယခု သုဓမ္မာဂိုဏ်းတွင်လည်း လေးစားလောက်သော သီလ သမာဓိ ပညာဂုဏ်များနှင့် ပြည့်စုံသော ဆရာတော်ကြီးများ ရှိနေကြပါတကား၊ (အဂတိ မလိုက်စားဘဲ ဣဿာ မစ္ဆရိယနည်းပါး၍) မေတ္တာ ကရုဏာကြီးမားတော်မူကြသော ဆရာတော်ဘုရား ကြီးများ ရှိနေကြပါတကား"ဟု မျက်ဝါးထင်ထင် တွေ့မြင်လာရသောအခါ အရှင်ဇနကာဘိဝံသမှာ အဘယ်မှာလျှင် သုဓမ္မာဂိုဏ်းဝင်တို့ကိုလည်း အထင် သေးနိုင်တော့အံ့နည်း၊ သီလ သမာဓိ ပညာ သိက္ခာ သုံးပါးပြည့်စုံအောင် ကျင့်ကြံနိုင်မှုများသာ ပဓာန မဟုတ်တုံလော၊ ဤနည်းအားဖြင့် အရှင်ဇနက အဖို့မှာ သုဓမ္မာနှင့်ရွှေကျင်, ရွှေကျင်နှင့်သုဓမ္မာဟု နှစ်ဖြာခွဲခြား၍ မရနိုင်အောင် ဂိုဏ်းစည်းရိုးများ ပျက်ပြယ်ခဲ့ရလေတော့သည်။

## ဂိုဏ်းခွဲစိတ် မထားကြနှင့်

*ဤဂိုဏ်းစိတ်များနှင့်ပတ်သက်၍ ဆရာတော် အရှင်ဇနကာဘိဝံသက နံနက်စောစော ဩဝါဒ ပေးရင်း အကြောင်းစပ်လာလျှင် စီကာစဉ်ကာဖြင့် ပြန်လည် မိန့်ကြားပြတတ်သည်၊ "တို့ ဒီကျောင်း တိုက်မှာတော့ သုဓမ္မာ, ရွှေကျင်, ဒွါရ, ငှက်စသည်ဖြင့် ဂိုဏ်းပေါင်းစုံက ရောက်လာကြတာပဲ၊ အေး... ဒီ ကျောင်းတိုက်ရောက်လာရင် မင်းတို့ ဂိုဏ်းစကား မပြောကြနဲ့, ဂိုဏ်းခွဲလဲ မရှိကြနဲ့, ဂိုဏ်းစိတ်လဲ မထား ကြနဲ့, ဂိုဏ်းစိတ်ထားတာ နယ်ကျဉ်းတယ်၊ မကောင်း ဘူး၊ အလုပ် မတွင်ဘူး၊ သာသနာမှာ အလုပ်တွေ

* ယခုအခါ "သုဓမ္မာ, ရွှေကျင်, မဟာဒွါရ, မူလဒွါရ, အနောက်ချောင်းဒွါရ, ဝေဠုဝန်, ငှက်တွင်း, ဂဏဝိမုတ် ကူးတို့, မဟာရင်ဂိုဏ်း"ဟူ၍ သံဃာ့ဂိုဏ်းကြီး (၉) ဂိုဏ်း ရှိသည်ကို အသိအမှတ်ပြုထားပြီ။

အများကြီးရှိတယ်၊ ညီညီညွတ်ညွတ်နဲ့ စုပေါင်းလုပ်နိုင်ရင် သိပ်ကောင်းမှာ၊ ဂိုဏ်းစိတ်ကလေးတွေ ထားကြတော့ ညှိလို့ မရနိုင်ဘူး၊ အခုရှိနေကြတာ ဘာဂိုဏ်းဖြစ်ဖြစ် ဘုရားသားတော်ချည်းဘဲ၊ ဒီတော့ ကိုယ့်ကိုယ်ကို "ငါ ဘုရားသားတော်ပဲ" ဒီမျှလောက်သာထား။

တစ်ခုတော့ ရှိတယ်, ကောင်းတဲ့ အမူအရာ, စိတ်နေစိတ်ထား, အကျင့်အကြံတွေဆိုတာကတော့ ဘယ်ဂိုဏ်းက ရရ ယူရမယ်၊ သုဓမ္မာဂိုဏ်းက ရရ, ရွှေကျင်ဂိုဏ်းက ရရ, ဒွါရ-ငှက် စသည်ဂိုဏ်းက ရရ, ကောင်းတာဟူသမျှ ယူရမယ်၊ စိတ်ကောင်းနှလုံးကောင်းထားရမယ်၊ အဲ-ဂိုဏ်းစွဲသာ မထားကြနဲ့။

## ကောင်းတာရှိ အတုယူရမယ်

ဉပမာ-သင်္ကန်းဝတ်ပုံ ဝတ်နည်း, ရုံပုံရုံနည်း ရွှေကျင်ဂိုဏ်းက ဆုံးမထားတာ ကောင်းပါတယ်၊ သပ်သပ်ရပ်ရပ် ချပ်ချပ်ရပ်ရပ် ရှိတယ်၊ ဒါယူရမယ်၊ အခုလဲ ယူနေတာပဲ၊ ပုံပန်းအနေနဲ့ ရွှေကျင်ပုံပန်းပဲ၊ သို့သော် "ရွှေကျင်"ဆိုတဲ့ တစ်မျိုးတည်းသော စိတ်တော့ မထားကြနဲ့၊ သီလ သမာဓိ ပညာ ကျင့်ပုံကြံပုံလဲ ကောင်းတဲ့ဥစ္စာဟူသမျှ ယူရမှာပဲ၊ ရွှေကျင်ဆရာတော်ဘုရားကြီးတို့ လက်ထက်ကစပြီး နေထိုင်ခဲ့ကြပုံတွေ, သိပ်သိပ်သည်းသည်း ရှိပုံတွေ, နည်းစနစ် တွေ အတုယူရမယ်၊ စည်းကမ်းကောင်းတွေ, ယဉ်ကျေးမှုရှိတာတွေ ယူရမယ်၊ သုဓမ္မာဆရာတော်, ဒွါရဆရာတော်ကြီးများရဲ့ စိတ်ထားစိတ်နေ အဂတိမလိုက်စားပုံတွေ, သီလ သမာဓိ ရင့်ကျက်ပုံတွေ မေတ္တာ ကရုဏာ ပြည့်ဝပုံတွေ အတုယူဖို့ကောင်းတယ်၊ ယူလဲ ယူရမယ်။

အသုံးအနှုန်းနဲ့ပတ်သက်လို့ ဒီကျောင်းတိုက်မှာ တစ်ပါးနှင့်တစ်ပါး ခေါ်ဝေါ်တဲ့အခါ "အရှင်ဘုရား" လို့ ထူးရတယ်၊ ဒါဟာ ဒွါရဂိုဏ်းက ယူထားတာပဲ၊ ဘန္တေ (သို့မဟုတ်) ကို ဘန္တေပုဒ်ရဲ့ ဘာသာပြန်ကလေးပဲ၊ ကောင်းပါတယ်၊ ပြီးတော့ ပြန်လည်ဝန်ခံတဲ့ နေရာမှာ "တင်ပါ"လို့ အများက သုံးကြပေမယ့် ဒီမှာတော့ "မှန်ပါဘုရား"လို့ သုံးကြရမယ်၊ "ဧဝံ ဘန္တေ"ပုဒ်ရဲ့ ဘာသာပြန်ကလေးပဲ၊ ဒါလဲ ကောင်းလို့ အတုယူထားတာပဲ။

## ရွှေကျင်တိုက်က ဖိုးသူတော်လေး

ရွှေကျင်ဆရာတော်ဘုရားကြီးများက ဆိုရင် … ဖိုးသူတော်ကလေးတွေကိုတောင် အမှုမဲ့မထားဘူး၊ သူ့စည်းကမ်းနဲ့သူ သင်ပေးထားတယ်၊ ယဉ်ကျေးအောင် ညွှန်ပြထားတယ်၊ တစ်ခါကတော့ မန္တလေးတောင်ပြင်က နာမည်ကြီးတဲ့ ဆရာတော်ကြီးတစ်ပါးက မန္တလေးတောင်ရဲ့ မြောက်ဘက်မှာရှိတဲ့ ရွှေကျင်ဆရာတော်ကြီး၏ကျောင်းတိုက်ကို ကိစ္စတစ်ခုနဲ့ ကြွသွားသတဲ့၊ ကျောင်းပေါက်ဝရောက်တယ်ဆိုရင်ပဲ အသက် ၁၂ နှစ်လောက်သာ ရှိသေးတဲ့ ဖိုးသူတော်ကလေးနှင့် စတွေ့, ဖြူဖြူဖွေးဖွေး ဖိုးသူတော်ကလေးက လက်အုပ်ကလေး ချီလို့ "ဆရာတော်ဘုရား… ဘယ်ကို ကြွမလို့ပါလဲဘုရား"တဲ့ ရိုရိုသေသေ မေးလျှောက်သတဲ့၊ ဒီတော့ အဲဒီဆရာတော်ဘုရားကြီးက "မင်းတို့ ဆရာတော်ဆီကို လာတာကွ, ရှိရဲ့လား" လို့ ဆိုတော့ "ရှိပါတယ်ဘုရား, တပည့်တော် လိုက်ပို့ပါ့မယ်ဘုရား"တဲ့၊ လက်အုပ်ကလေးချီလို့ ရိုရို ရိုရိုနှင့် ရှေ့ဆောင်ပြီး လိုက်ပို့သတဲ့။

ဒါကို အဲဒီ ဆရာတော်ကြီးက သဘောကျလွန်းလို့ ကျေနပ်လွန်းလို့ မမေ့နိုင်ဘူးတဲ့၊ အာရုံထဲမှာ မပျောက်နိုင်ဘူးတဲ့၊ တမြေ့မြေ့နဲ့ ကြည်နူးနေမိသတဲ့၊ အဲလိုနှင့် ကိစ္စပြီးလို့ ကိုယ်ကျောင်း ကိုယ်ပြန်ရောက်တော့ အမိန့်ရှိသတဲ့။

"တို့ကျောင်းတိုက်က မောင်ပဥ္စင်းတွေက… ရွှေကျင်ဆရာတော်ကျောင်းတိုက်ကဖိုးသူတော်လေးလောက်ကမှ သောက်ချိုးမကျကြဘူး"လို့ မြည်တွန်တောက်တီးတော်မူသတဲ့။

### ယဉ်ကျေးဖို့ပြုပြင်ရမယ်

ဆိုလိုတာက အစစအရာရာ သင်ပြထားတော့ ဖိုးသူတော်ကလေးဟာ ချက်ချက်ချာချာ လိမ္မာနေတာကို တွေ့သွားရတာကိုး၊ သူ့ကျောင်းက မောင်ပဉ္စင်းတွေကတော့ စိတ်ကောင်းနှလုံးကောင်းတော့ ရှိပါရဲ့၊ ဝတ်ချင်သလို ဝတ်၊ နေချင်သလို နေ၊ စားချင်သလို စား၊ ယဉ်ကျေးမှု နည်းပါးလှတယ်၊ အလိုက်မသိတတ်ကြဘူးလို့ ဆိုလိုတာပေါ့၊ ဟုတ်တယ်ကွယ့်၊ အဝတ်အစားတို့၊ အနေအထိုင်တို့၊ အလိမ္မာတို့ဆိုတာကလဲ လိုသေးတာပဲ၊ အများအားဖြင့် နေတတ်ကြတာက ဖြစ်သလို ကြုံသလို ပေါ့ပေါ့ပဲ နေလိုက်တတ်ကြတယ်၊ သင်္ကန်းဝတ်တဲ့နေရာမှာ သင်းပိုင်ဝတ်တော့ စွန်တောင်စွဲ၊ ကေသီရုံတော့ ဖရိုဖရဲ၊ ပါးစပ်ကပြောတော့ ဖွာဇလီကျဲ၊ စားတဲ့သောက်တဲ့ နေရာမှာလဲ သပိတ်ဖုံးနဲ့ပေမယ့် ထည့်စားချင်စားနေတာ၊ အပြစ်ကတော့ မပြောပလောက်ဘူးပေါ့၊ ဒါပေမယ့် လူတွေ အမြင်မှာ ဘယ်ကြည့်ကောင်းမလဲ၊ စိတ်ထားတော့ ကောင်းကြပါရဲ့၊ ဒါလောက်နှင့်က မပြည့်စုံကြသေးဘူးကွယ့်၊ ဒါကြောင့် အဲဒီဆရာတော်ကြီးက ယှဉ်ကြည့်တဲ့အခါ ကွာခြားလွန်းနေတာကို တွေ့ရလို့ သူ့ကိုယ်တော်တွေအပေါ်မှာ အားမရနိုင်လို့ပြောတာ၊ ပြုပြင်ကြလို့ဆိုလိုတာ" ဤသို့ စသည်ဖြင့် မိန့်တတ်သည်။

## သာသနာတော်ကပိုင်သည့် အများဆိုင်ဘုန်းကြီး

### ရွှေကျင်ဂိုဏ်းဖျက်သမားကြီးတဲ့

ဆရာတော် အရှင်ဇနကာဘိဝံသသည် တပည့်များကိုသာ ဂိုဏ်းစွဲမထားဖို့ မိန့်ကြားသည်မဟုတ်၊ ကိုယ်တော်တိုင်လည်း လက်တွေ့ကျင့်သုံးပြသည်ကို အကြိမ်ပေါင်း များစွာ တွေ့ရပါ၏၊ သုဓမ္မာဆရာတော်များနှင့်အတူ ဆွမ်းဘုဉ်းပေးတော်မူ၏၊ သုဓမ္မာဆရာတော်များနှင့် သိမ်အတူဝင်တော်မူ၏၊ သိမ်ထဲမှာ ကမ္မဝါကို အတူဖတ်တော်မူ၏၊ ကံကြီးကံငယ်အတူဆောင်တော်မူ၏၊ ဒွါရဂိုဏ်း ငှက်ဂိုဏ်းစသော ဆရာတော်များနှင့်လည်း မခြားတမူ အလားတူ သာလျှင် ဆက်ဆံတော်မူ၏၊ ဤသည်တို့ကို မြင်သောအခါ ရွှေကျင်ဆရာတော် အချို့က...

"ဦးဇနကဟာ ဂိုဏ်းစိတ်မထားဘူး၊ ရွှေကျင်ထဲနေပြီး ရွှေကျင်လို မကျင့်ဘူး"ဟု ပြောကြသတတ်။

တစ်ခါတုန်းကမူ ဆရာတော် အရှင်ဇနကာဘိဝံသ၏ တပည့်လည်းဖြစ်၊ အလွန်ရင်းနှီးသူလည်းဖြစ်သော ဒကာထိန်ဝင်းက လျှောက်ထားဖူး၏၊ ...

"ဆရာတော်ဘုရား...ဆရာတော်ကို ရွှေကျင်ဆရာတော် တချို့က ပြောနေကြတယ်၊ ... ဦးဇနကဟာ ရွှေကျင်ထဲနေပြီး ရွှေကျင်စိတ်လဲမထားဘူး၊ ရွှေကျင်ဂိုဏ်းကို ဖျက်နေတာ, ဂိုဏ်းဖျက်သမားကြီးတဲ့၊ ပြောနေကြတယ်ဘုရား"ဟု လျှောက်သောအခါ ဆရာတော်က ကျယ်ပြန့်သောအဓိပ္ပာယ်ကို ဆောင်သည့် အပြုံးမျိုးဖြင့် ပြုံးနေသည်၊ ပြီးတော့မှ...

"သူတို့က ငါ့ကို သုဓမ္မာမှန်း မသိလို့ ပြေနေကြတာပါကွာ"ဟူ၍ ခပ်ရွှန်းရွှန်းပင် မိန့်တော်မူသတတ်၊ ဤသို့ ဂိုဏ်းနှင့်ပတ်သက်၍ "ရွှေကျင်စိတ် မရှိဘူး" ဟု အပြစ်တင်လာလျှင် မည်သည့်အခါမျှ မနာတတ်ပေ၊ အဘယ့်ကြောင့်ဆိုသော် ရွှေကျင်စိတ်ချည်း မထားဘဲ အားလုံး ဂိုဏ်းပေါင်းစုံစိတ် ထားသည်၊ ဘုရားသာသနာကိုသာ အဓိကထားသည်ဟူသော အနေဖြင့် ဂုဏ်ယူနေသောကြောင့် ဖြစ်ပေသည်။

## အများဆိုင်ဘုန်းကြီး

ဤသို့ ကျယ်ပြန့်သောစိတ်ထားဖြင့် ဆရာတော် အရှင်ဇနကာဘိဝံသသည် သာသနာတော်အတွက်၊ နိုင်ငံအတွက်၊ လူမျိုးအတွက်၊ ဘာသာအတွက် အဘက်ဘက်မှာ စေတနာ မေတ္တာ ရှေ့ထား၍ ကြိုးစား ဆောင်ရွက်လာသောအခါ အများက သိလာပါသည်၊ နိုင်ငံက သိလာပါသည်၊ သာသနာက သိလာပါသည်၊ ကမ္ဘာကပါ သိလာကြတော့သည်၊ အဘယ်သို့ သိသနည်း?

"အရှင်ဇနကာဘိဝံသသည် ရွှေကျင်ဂိုဏ်းပိုင် မဟုတ်၊ ရွှေကျင်ဂိုဏ်းတစ်ခုတည်းအတွက် ကွက်ကွက်ကလေး ကြည့်သူမဟုတ်၊ တစ်သာသနာလုံးအတွက်ကြည့်သူ၊ တစ်သာသနာလုံးအတွက် အလုပ်လုပ်သူ ဖြစ်၏၊ ထို့ကြောင့် တစ်ဘဝသာသနာလုံးက ပိုင်ဆိုင်သူသာဖြစ်သည်"ဟု သိလာမြင်လာကြသည်။

အရှင်ဇနကာဘိဝံသ ဆရာတော်ကိုယ်တိုင်ကလည်း ဤသဘောနှင့်နှင့် မိန့်ဖူး၏၊ သက်တော် ၇၄ နှစ်အရွယ်ရောက်ချိန်တုန်းက သူဇာတိ သရိုင်ရွာသူ၏ နှမဝမ်းကွဲတစ်ယောက်က မြေးရှင်ပြုအလှူအတွက် လာပင့်သည်၊ ထိုအခါ ဆရာတော်က...

"သင်တို့ဟာ ငါ့ကို ဆွေဘုန်းကြီး မျိုးဘုန်းကြီးအနေနဲ့ လာပင့်တာ၊ ငါဟာ ယခုအခါ ဆွေဘုန်းကြီး မျိုးဘုန်းကြီး မဟုတ်တော့ဘူး၊ ငါ့ကျောင်းတိုက်ကို တစ်နိုင်ငံလုံးက ဝိုင်းပြီးထောက်ပံ့နေကြလို့ ဒီသံဃာများ နေနိုင်ကြတာ၊ ဒီတော့ ငါဟာ အများဆိုင်ဘုန်းကြီး ဖြစ်နေပြီ၊ အလုပ်ကိုလည်း အများဆိုင် အကျိုးရှိရာကိုသာ ဦးစားပေးလုပ်လာခဲ့တာကိုး၊ အထူးအားဖြင့် အများဆိုင် ဖြစ်နေတဲ့ သာသနာတော်ကြီးအတွက် အများ အကျိုးရှိအောင် အာရုံစိုက်ပြီး အလုပ်လုပ်လာခဲ့တာကိုး၊ ဒါကြောင့် ငါ့ကိုလဲ အများအကျိုးရှိမယ့် အစီအစဉ်နှင့် ပင့်ရင်သာ လိုက်နိုင်စရာရှိရဲ့"လို့ မိန့်တော်မူလိုက်ပါသတဲ့။

(တစ်ဘဝသံသရာ-၄၁၉။)

## ရွှေကျင်စစ်စစ် ဖြစ်သည့်ပြင်

ဤသို့ဤနှယ် ဆရာတော်ပါပေ၊ "ငါတည်းတစ်ယောက်၊ ချမ်းသာရောက်ဖို့၊ ခုလောက်ကြိုးကုတ်၊ အားမထုတ်ဘူး"ဟူသော ကြွေးကြော်သံနှင့် အညီ အလုပ် လုပ်တော်မူခဲ့ပါပေသည်၊ အများအကျိုးကိုသာ ဦးစားပေးခဲ့ပါပေသည်၊ ဤကဲ့သို့ ကျယ်ပြန့်သော စိတ်ထားဖြင့် ကြိုးစားလုပ်ကိုင်လာခဲ့သော ဆရာတော်ကို "ရွှေကျင်စိတ်မထားဘူး၊ ရွှေကျင်ထဲနေပြီး ရွှေကျင်လို မနေဘူး၊ ရွှေကျင်ဂိုဏ်းကို ဖျက်နေတာ၊ ရွှေကျင်မစစ်ဘူး"ဟု စွပ်စွဲလာသောအခါ အဘယ်မှာလျှင် စိတ်ထဲ၌ နာကျင်လိမ့်မည်နည်း၊ သေသေချာချာ ခုံဖွဲ့ အစစ်အဆေးပင် ခံယူလိုပေလိမ့်ဦးမည်။ အရှင်ဇနကာဘိဝံသကို စစ်ဆေးကြည့်ပါ၊ ရွှေကျင် မစစ်ဘူးလော? စစ်လိုက်သမှ ရွှေကျင် အစစ်ကြီး၊ မျိုးနှင့် ရိုးနှင့် လာခဲ့သော ရွှေကျင်ကြီး၊ သို့ဖြစ်လျှင် ရွှေကျင်လို မနေဘူးလား၊ ရွှေကျင်လို နေ၍ ယခုအခါ အစစအရာရာ သပ်သပ်ရပ်ရပ်နှင့် သာသနာတော်မှာ စံပြပင် ဖြစ်လျက်နေချေပြီ၊ စွပ်စွဲသော ပုဂ္ဂိုလ်တို့ပင် သူ့ကို မီအောင် နေနိုင်မည်လော, ဝေးစွ။

သို့ဖြစ်လျှင် ရွှေကျင်ဂိုဏ်းကို ဖျက်နေသလော? ရွှေကျင်ဂိုဏ်းနှင့် အတူဆုံးဖြစ်အောင် ပြုပြင်နေထိုင်သော ပုဂ္ဂိုလ်မှာ အရှင်ဇနကာဘိဝံသသာ ဖြစ်၏၊ ထို့ကြောင့် ဂိုဏ်းဖျက် မဟုတ်၊ ဂိုဏ်းနှင့်တူအောင် ကျင့်သူသာ ဖြစ်၏၊ တစ်ဖန် ရွှေကျင်ဂိုဏ်းကို ဖျက်နေသလော, ရွှေကျင်ဂိုဏ်းစိတ်မျိုးထား၏၊ ထို့ထက် ကျယ်ပြန့်သော စိတ်မျိုးလည်း ထားသည်။

## မူလဆရာတော်စိတ်ထားကဲ့သို့ကျင့်

ရှေးတုန်းက သီလ သမာဓိနှင့် အကျင့်သိက္ခာ အလွန် ပြည့်ဝတော်မူသော "သီးလုံး ဆရာတော်ဘုရားကြီး"ဆိုတာ ရှိခဲ့ဖူးသည်၊ ထိုဆရာတော်ဘုရားကြီး အထံမှာ ဗန်းမော်ဆရာတော်လောင်းသည် သင်္ဂဇာဆရာတော်လောင်း၊ ရွှေကျင်ဆရာတော်လောင်းများနှင့်အတူ တပည့်ခံလျက် နေခဲ့ကြ၏၊ နောင်သောအခါ ယင်းတပည့်ကြီးသုံးပါးတို့သည် တစ်ပါးနှင့်တစ်ပါး မေတ္တာရေချမ်း ကမ်းလှမ်းလျက် နေလာခဲ့ကြသည်ဟူသတတ်။

(တစ်ဘဝသံသရာ-၄၁၆။)

ရွှေကျင် ဆရာတော်ဘုရားသည် နောင်သောအခါ ရွှေကျင်ဂိုဏ်း သီးခြားထောင်လာခဲ့သော်လည်း ထိုသုဓမ္မာဆရာတော်များနှင့် စိတ်ဓာတ်မခြား တစ်သားတည်းပင် ဖြစ်တော်မူခဲ့သည်ဟူ၏၊ သာသနာတော်ရေးအတွက် ဆက်သွယ်လျက် မေတ္တာတော်များချင်းလည်း ယှက်နွယ်လျက် နေတော်မူခဲ့ကြသည်ဟူသတတ်။

ဤသည်တို့ကို ဆရာတော် အရှင်ဇနကာဘိဝံသက အားကျလှ၏၊ ကြည်ညိုလွန်းလှ၏၊ ထို့ကြောင့် အတုယူပြီးလျှင် မူလရွှေကျင်ဆရာတော်ဘုရားကြီးနှင့် အရာရာတွင်အတူဆုံးဖြစ်အောင် ကျင့်သုံးတော်မူသည်၊ ထို့ကြောင့် "ရွှေကျင်စိတ် တစ်မျိုးသာမက ဂိုဏ်းပေါင်းစုံစိတ်၊ တစ်သာသနာလုံးစိတ်လည်း ထားသည်"ဟု ပြောကြားရပေတော့မည်။

## ဂိုဏ်းစွဲမရှိပုံသာဓကနမူနာ

ဆရာတော် အရှင်ဇနကာဘိဝံသကား သူ့နှလုံးသားတွင် ဂိုဏ်းစည်းရိုးများ မထားခဲ့သည်မှာ အမှန်ပင် ဖြစ်၏၊ သာသနာတော်အတွက် သန့်စင်သော စေတနာဖြင့် ဆောင်ရွက်သူမှန်လျှင် ရွှေကျင်ဖြစ်ဖြစ်၊ သုဓမ္မာဖြစ်ဖြစ်၊ ဒွါရ-ငှက်စသည်ဖြစ်ဖြစ် မည်သည့်ပုဂ္ဂိုလ်ပင်ဖြစ်စေ သူအလွန်ကြည်ညို၏၊ လေးစား၏၊ ယင်းအတွက် အောက်ပါ သာဓကဖြင့် သိနိုင်ပါသည်၊ တစ်ခါက ရန်ကုန်မြို့ ကုန်သည်လမ်း အမှတ် ၅၅၅ ဦးမောင်ကြီးဘဏ္ဍာထိန်းအဖွဲ့ဝင်ဒါယကာများက ဆရာတော်ထံ အကူအညီတောင်းသည်။

ဦးမောင်ကြီးဆိုသော ပုဂ္ဂိုလ်မှာ သူပိုင်ပစ္စည်းအချို့ကို ငွေပင်ငွေရင်း မြုပ်နှံ၍ ထိုမှ ဖြစ်ပေါ်လာသော အကျိုး အမြတ်တို့ကို သာသနာတော်အတွက် အလုပ် လုပ်နေကြသော အသင်းအဖွဲ့များနှင့် ဆရာတော်ကြီးများအား လှူဒါန်းထောက်ပံ့ရန် ရည်ရွယ်ချက်ဖြင့် အဖွဲ့တစ်ခု ဖွဲ့ထားသည်၊ ယင်းအဖွဲ့က ဆရာတော်အား ဩဝါဒပေးရန် သင့်လျော်သော ဆရာတော် နှစ်ပါးကို လျာထားပေးပါရန် လျှောက်ထားသောအခါ အောက်ပါအတိုင်း စာပြန်လေသည်။

## ဦးမောင်ကြီးဘဏ္ဍာတော်ထိန်းအဖွဲ့ဝင်ဒါယကာများသို့

ဒါယကာတို့၏ "ဩဝါဒချီးမြှင့်ပါရန်နှင့်ရွေးချယ်ချီးမြှင့် မ,စပါရန်"ဟူသော စကားအရ အောက်ပါ ဩဝါဒကို ညွှန်ပြပါသည်။

**၁။ ဘဏ္ဍာတော်ထိန်းလူကြီးများအတွက် ဩဝါဒ**

(က) "ဆန္ဒာဂတိ"ဟု ခေါ်သော ချစ်ခင်ခြင်း၊ အလွမ်းသင့်ခြင်းကြောင့် ရွေးချယ်မှု မရှိရခြင်း။

(ခ) "ဒေါသာဂတိ"ဟု ခေါ်သော ဂုဏ်အင်္ဂါ ပြည့်စုံပါလျက် မိမိတို့က မုန်းခြင်းကြောင့် မရွေးချယ်ဘဲ မနေမိအောင် သတိပြုရခြင်း၊

(ဂ) "ဘယာဂတိ"ဟုခေါ်သော ဂုဏ်အင်္ဂါမရှိပါဘဲ ကြောက်သောကြောင့် မရွေးချယ်မိအောင် သတိပြုရခြင်း၊

(ဃ) "မောဟာဂတိ" ဟု ခေါ်သော မိမိတို့နားမလည်မှုကြောင့် မရွေးချယ်မိအောင် ပညာရှိသူတော်ကောင်းတို့နှင့် တိုင်ပင်ပြီးမှ ရွေးချယ်ရခြင်း။

ဤလေးပါးသည် ဘဏ္ဍာတော်ထိန်းလူကြီးများအတွက် ဗုဒ္ဓမြတ်စွာ၏ အလိုတော်နှင့် ညီသော ဩဝါဒ ဖြစ်ပါသည်။



**ဦးမောင်ကြီးဘဏ္ဍာတော်ထိန်းအဖွဲ့ဝင်များအား ဩဝါဒစကားပြောကြားချက်**

**၂။ ရွေးချယ်ရာ၌ ဩဝါဒ**

ဘုန်းကြီးကိုယ်တိုင် ဒကာ ဦးမောင်ကြီးနှင့် ဘဏ္ဍာတော်ထိန်းလူကြီးများနေရာကနေ၍ စဉ်းစားကြည့်သောအခါ ညွှန်ပြအပ်လတ္တံ့သော ဂုဏ်အင်္ဂါနှင့် ပြည့်စုံသော ဆရာတော်များကို လေးလေးစားစား ကိုးကွယ်မည် ဖြစ်ပါသည်။

(က) ငယ်စဉ်ကစ၍ ဆရာကောင်း သမားကောင်းများထံ၌ ပိဋကတ်စာပေကို လေ့လာသင်ယူခြင်း၊

(ခ) ယခုအချိန်ထိ အပြစ်ကင်း၍ သန့်ရှင်းသည်ဟု အများက အသိအမှတ် ပြုခံရခြင်း၊

(ဂ) သံဃာတော်အများ၏ဆရာတော်အဖြစ်ဖြင့် ဂိုဏ်း (သို့မဟုတ်) ကျောင်းတိုက်ကို အုပ်ချုပ်နေဆဲဖြစ်ခြင်း၊

(ဃ) ကျန်းမာပါလျှင် သံဃာများကို ပိဋကတ်ကျမ်းစာများ ပို့ချတုန်းဖြစ်ခြင်း (သို့မဟုတ်) ကျမ်းစာများ ပြုစုရေးသားနေခြင်း၊

(င) ဘုန်းကံလည်း စိုလျှံအောင် မရှိခြင်း၊

(စ) ရှိသမျှ ဘုန်းကံကိုလည်း သံဃာများနှင့် ကျောင်းတိုက်အား ကျေးဇူးပြုနေခြင်း၊

(ဆ) အသက်သိက္ခာအားဖြင့် ကာလအလိုက် ဆရာတော်ကြီးဟု အသိအမှတ်ပြုလောက်နေခြင်း၊

(ဇ) ဣဿာ, မစ္ဆရိယနှင့် မာန်မာန အစွန်းမထွက်ခြင်း။

**မှတ်ချက်။** ။ကိုယ့်ထက်သာ၍ မနာလိုခြင်းကို ဣဿာ, ရသမျှပစ္စည်းလေးပါးကို နှမြော၍ တပည့်သံဃာတို့အား မပေးမစွန့်ရက်ခြင်းကို မစ္ဆရိယ, ဟိတ်ဟန်လုပ်တတ်ခြင်းနှင့် ကိုယ့်ကိုယ်ကို အထင်ကြီးနေခြင်းကို မာန်မာနဟု ခေါ်၏၊ ပုထုဇဉ်မှန်လျှင် ထိုသုံးမျိုး မကင်းနိုင်ပါ၊ သို့ရာတွင် အစွန်းမထွက်ဖို့ လိုပါသည်။

**၃။ ယခုအချိန်အတွက် ညွှန်ပြခြင်း**

ဤဂုဏ်အင်္ဂါများနှင့် ပြည့်စုံသည်ဟု ယူဆရသော အောက်ပါ ဆရာတော် နှစ်ပါးကို (လစ်လပ်သည့်အခါ ရွေးချယ်ဖို့ရန်) ယခုအချိန်မှာ ညွှန်ပြလိုပါသည်။

(က) မန္တလေးမြို့ ရွှေရေးဆောင်ကျောင်းတိုက် ဆရာတော် ဦးပဏ္ဍဝ (တစ်တိုက်လုံး၏ ဆရာတော်ဖြစ်သည်၊ သက်တော် ၇၃ နှစ် ရှိပြီ။)

(ခ) ပခုက္ကူမြို့ မဟာဝိသုတာရာမ (အလယ်တိုက်ကြီး) တိုက်အုပ်ဆရာတော်နှစ်ပါးတွင် တစ်ပါးဖြစ်သော ဦးနန္ဒိယ (သက်တော် ၆၆ နှစ်ရှိပြီ၊ မဟာရဋ္ဌဂုရုဆရာတော်ကြီး ပျံလွန်တော်မူသောအခါ ရွေးချယ် လျာထားသင့်သည်။)

| | |
|---|---|
| ၁၃၃၀–ခု တန်ဆောင်မုန်းလ | ကိုးကွယ်ခံဖြစ်သော ဆရာတော်တစ်ပါး ဦးဇနကာဘိဝံသ မဟာဂန္ဓာရုံကျောင်းတိုက် အမရပူရမြို့။ |

**မှတ်ချက်။** ။ဤသို့လျှင် ဣဿာ မစ္ဆရိယမထားဘဲ သူမမွာဆရာတော်များကိုပင် ညွှန်ကြားသည်ကို ကြည့်၍ အရှင်ဇနကာဘိဝံသ၏ စိတ်ဓာတ်ကို အကဲခတ်နိုင်ပါတော့သည်။

## ကျယ်ပြန့်သောအမြော်အမြင်နှင့် သူ့သဘောထား ဆရာတော်ကျိန်းနေသလားတဲ့

ဆရာတော် အရှင်ဇနကာဘိဝံသက "သာသနာတော်မှာ အလုပ်တွေ အများကြီးရှိတယ်၊ ယိုယွင်းလာတဲ့ အချက်ပြင်ရမယ်၊ ကိုယ်ကျင့်သိက္ခာ သီလ သမာဓိ အခြေခံတဲ့ စာသင်နည်းတွေဖြစ်အောင် ဖန်တီးရမယ်၊ စာသင်နည်းတွေပြောင်းရမယ်၊ စာမေးပွဲတွေ ပြင်ရမယ်၊ အဲသိအမြင် ကျယ်ပြန့်စေတဲ့ သင်နည်းမျိုး ဖြစ်အောင် လုပ်ရမယ်၊ ယခုခေတ်အသက် ၂၅ နှစ်ရှိတဲ့ တက္ကသိုလ်ကျောင်းသားတစ်ဦးရဲ့ အတွေးအခေါ် အယူအဆဟာ ကွာခြားလွန်းနေတယ်၊ ဒါဟာ ရဟန်းတော်တွေဘက်မှာ သင်နည်းစနစ်တွေ လိုနေသေးလို့ဆိုတာ ပြနေတာပဲ၊ ဒါတွေဟာ ပြင်ဖို့တွေပဲ၊ အားလုံးဝိုင်းပြီး ပြင်ကြရမယ်၊ ပြီးတော့ ကိုယ်နဲ့နီးစပ်ရာ ဒါယကာ ဒါယိကာမတွေရဲ့ စာရိတ္တယဉ်ကျေးမှုပိုင်းဆိုင်ရာမှာ ဦးဆောင်နိုင်ရမယ်၊ ဘာသာရေးနှင့် စပ်တဲ့ အလုပ်တွေကို သဘာဝကျအောင် စီမံနိုင်ရကြမယ်၊ အပို မကုန်သင့်တာ မကုန်စေရဘူး။

အဲသလောက် ပြုပြင်စရာတွေ များပါလျက် များသောပုဂ္ဂိုလ်တို့က ကိုယ်နှင့်မဆိုင်သလိုလို သွေးအေးတော်မူနိုင်အားကြတယ်၊ အလုပ် မလုပ်ကြသလိုပဲ၊ လူတွေကလဲ ဘုန်းကြီးတွေကို "အလုပ်မရှိတဲ့ သူတွေ, အလုပ် အားနေတဲ့သူတွေ, အားသလောက် ကျိန်းနေ မှိန်းနေတယ်"လို့ ထင်တတ်ကြတယ်၊ ဒါကြောင့်လဲ ဘုန်းကြီးကျောင်းတစ်ခုခုကို သူတို့ဝင်လာပြီဆိုရင် "ဆရာတော် ကျိန်းနေသလား, ဘုန်းကြီး ကျိန်းနေသလား"လို့ မေးတတ်ကြတာ။

အဲလို မေးတာကိုပဲ ဘုန်းကြီးက မခံနိုင်တာ၊ ဘုန်းကြီးသိစေချင်တာက "ဘုန်းကြီးတွေလဲ ဆိုင်ရာအလုပ်ရှိကြတာပဲ၊ အားလုံး အလုပ် လုပ်နေကြတယ်"လို့သာ သိစေချင်တာ"။

## တိကျပြတ်သားတဲ့ဆုံးဖြတ်ချက်မိန့်

"မြန်မာပြည်မှာ အဖိုးတန်သာသနာတော်ကြီး ရပ်တည်နေပါတယ်၊ ဒီသာသနာတော်ကြီးကို ဒီနိုင်ငံသားတွေ ကံကောင်းလို့ ရကြတာပါ၊ အဖိုး မြောက်မြားစွာ ထိုက်တန်တဲ့ ရတနာတုံးကြီးလိုပါပဲ၊ ရတနာပေမယ့် ထိုက်တန်အောင် သုံးစွဲသူလက်မှာ တန်ဖိုးတက်၍ ညံ့ဖျင်းသူလက်မှာ တန်ဖိုး နည်းသလို အထင်ခံရတတ်ပါတယ်၊ ယခု သာသနာတော်ကြီးကိုလဲ ဒီအတိုင်းပဲ အထင်ခံနေရပါတယ်၊ ဒါတွေဟာ သာသနာ့ဝန်ထမ်းသားတွေရဲ့ တာဝန်ပဲ၊ ဝိုင်းပြီး ပြင်ကြစို့လို့ ညှိတော့ ညှိလို့ မရနိုင်ဘူး၊ ဘာဖြစ်လို့လဲလို့ အကြောင်းရှာတော့ ဂိုဏ်းစိတ်ကလေးတွေ မွေးနေကြလို့၊ သူ့ဂိုဏ်း ငါ့ဂိုဏ်း, သူ့အုပ်စု ငါ့အုပ်စု ဖွဲ့နေကြလို့၊ ... "တို့ဟာမှ ကောင်းတယ်" ဆိုတဲ့ ကျဉ်းမြောင်းတဲ့ အမြင်တွေ ရှိနေကြလို့၊ ဒါဟာ အကြောင်းရင်းတစ်ခု ဖြစ်နေတယ်။"

ဤသို့စသော အပြောမျိုးကို ပြောကာ ပြောကာ ဆရာတော်က ညည်းတွားတတ်ပါ၏၊ ဤသို့ ညည်းတွားနေသည့်အထဲမှာ တစ်နေ့တွင်ကား... တိကျ ပြတ်သားသော ဆုံးဖြတ်ချက်တစ်ခုကို မိန့်ပါတော့သည်။

"ဒါ မဟုတ်ဘူး, ငါလက်မခံနိုင်ဘူး၊ ဒါကို ငါက သဘောမတူဘူးလို့ပဲ မင်း ပြန်ပြော၊ အထက်အဆင့်ဖြစ်တဲ့ မြောင်းမြဆရာတော်ကြီးထံကိုလဲ သွားလျှောက်ဖို့ မလိုပါဘူး၊ ဒီနေရာမှာပဲ အပြီးအပိုင် ဆုံးဖြတ်ပြီးပြင်လိုက်ပါ။ ကဲ-စဉ်းစားစမ်းပါဦး, မင်း... တိပိဋကရေ အောင်တာဟာ ရွှေကျင်ဂိုဏ်း တစ်ဂိုဏ်းတည်းအတွက် ကွက်ကွက်ကလေးသာ ဂုဏ်ဆောင်ဖို့ ဖြစ်လာတာလား၊ အဲလို မစဉ်းစားသင့်ဘူး၊ ဖြစ်လဲ မဖြစ်သင့်ဘူး၊ အဲသလို အမြင်လဲ မကျဉ်းသင့်ဘူး၊ အမှန်က ဂိုဏ်းဂဏမရွေး သာသနာတော်ကြီး တစ်ခုလုံးအတွက် ဂုဏ်ကျက်သရေ ဆောင်ဖို့သာ ဖြစ်သင့်တယ်၊ ဖြစ်စေရမယ်၊ ဒါကြောင့် မင်းတို့ စီစဉ်ကြတဲ့မှုကို ငါတော့ လုံးဝ သဘောမတူဘူးလို့ပဲ မှတ်စေချင်တယ်"



တိပိဋကဓရဓမ္မဘဏ္ဍာဂါရိကဆရာတော်

## တိပိဋကဓရ အရှင်သုမင်္ဂလ

ဆရာတော် အရှင်ဇနကာဘိဝံသ၏ တပည့်ရင်း အရှင်သုမင်္ဂလသည် ၁၀ ဝါမျှ မပြည့်သေးမီ ငယ်ရွယ်စဉ်မှာပင် မြန်မာပြည်၌ အမြင့်ဆုံးဖြစ်သော တိပိဋကဓရစာမေးပွဲကြီးကို အောင်မြင်တော်မူလိုက်၏၊ ထို့ကြောင့် ပရိယတ္တိသာသနာတော်လောက၌ "တိပိဋကဓရ" ဟူသော သရဖူကြီးကို လက်ဝယ် ပိုင်ပိုင် ဆွတ်ခူးနိုင်သော ပုဂ္ဂိုလ်ထူးတစ်ပါး တိုးလာခဲ့သည်၊ ရှေးယခင်က ဤဘွဲ့ထူးကို ဆွတ်ခူးနိုင်သူမှာ သုံးပါးသာ ရှိခဲ့၏၊ ယခုတစ်ပါး တိုးလာပြီ၊ မြန်မာနိုင်ငံတော် လွတ်လပ်ရေး ရပြီးနောက် နိုင်ငံတော်အစိုးရက ပရိယတ် ပဋိပတ် နှစ်ရပ်လုံး ချီးမြှောက်မည်ဟူသော ရည်ရွယ်ချက်ဖြင့် ပရိယတ်ဘက်တွင် "တိပိဋကဓရစာမေးပွဲကြီး"ကျင်းပပေးခဲ့၏၊ ၁၃၁၀ ပြည့်နှစ်မှစ၍ ကျင်းပပေးခဲ့သည်။

စတင် ကျင်းပ၍ ၆ နှစ်မြောက်ရောက်သော ၁၃၁၅ ခုနှစ်တွင် မင်းကွန်းတောင်ရိုး ဓမ္မနာဒကျောင်းတိုက်မှ ထူးထူးခြားခြားအောင်မြင်သော အရှင်ဝိစိတ္တသာရာဘိဝံသ တစ်ပါး ပေါ်ပေါက်လာတော့သည်၊ ထို့ကြောင့် ဆဋ္ဌသင်္ဂါယနာပွဲကြီးတွင် တိပိဋကဓရတစ်ပါး အပါအဝင်ဖြင့် ဂုဏ်ရှိသိန်ရှိ ဆင်ယင်ကျင်းပနိုင်ခဲ့ကြသည်။

ထို့နောက် ၁၂ နှစ်မြောက်သော ၁၃၂၁ ခုနှစ်တွင် ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်ကြီးမှ အရှင်နေမိန္ဒသည်လည်းကောင်း၊ ၁၆ နှစ်မြောက်သော ၁၃၂၅ ခုနှစ်တွင် ပြည်မြို့ ပွင့်လှသိမ်ကုန်းကျောင်းတိုက်မှ အရှင်ကောသလ္လသည်လည်းကောင်း၊ ၂၆ နှစ်မြောက်သော ၁၃၃၅ ခုနှစ်တွင် ရန်ကုန်မြို့ ဗဟန်းနန္ဒဝန်လမ်း ဝိသုဒ္ဓါရုံ ရွှေကျင်တိုက်မှနေ၍ အရှင်သုမင်္ဂလသည်လည်းကောင်း အသီးသီး အောင်မြင်လာခဲ့ကြပါသည်။

ထို့ကြောင့်ပင် ဤသည်တို့ကို ထောက်ရှုခြင်းအားဖြင့် ဤတိပိဋကဓရဘွဲ့ထူးကို ရရှိနိုင်ဖို့မှာ လွယ်ကူသောအရာမဟုတ်ကြောင်း၊ ထူးခြားသောပါရမီရှိသူတို့၏ အရာသာ ဖြစ်ကြောင်း သိနိုင်ပါတော့၏၊ ထို့ကြောင့် အရှင်သုမင်္ဂလ အောင်မြင်လာသောအခါ အချို့ ဆရာတော်များက ဝမ်းသာအားရ ဤသို့ ပြောကြ၏။

"အေးကွယ်...မင်း၊ တိပိဋကဓရ အောင်တယ် ဆိုလို့ တို့ ဝမ်းသာနေကြတယ်၊ ဂုဏ်လဲ ယူနေကြပါတယ်၊ တိပိဋကဓရ စာမေးပွဲကြီး ကျင်းပလာတာကြာပြီ၊ ဆဋ္ဌသင်္ဂါယနာပွဲကြီး မတိုင်မီက စခဲ့တာ၊ ခုမှ လေးပါးပဲ အောင်သေးတယ်၊ အဲဒီထဲ မင်းက အငယ်ဆုံး လေးပါးမြောက်"။

## ရွှေကျင်ဂိုဏ်းမှ တိပိဋကဓရဘွဲ့

"ဒါထက် တို့က ဒီလို စဉ်းစားမိကြတယ်ကွဲ့၊ မင်းအောင်တယ် ကြားကတည်းက တို့ ဝိုင်းပြီး ပြောကြဆိုကြ စဉ်းစားကြတယ်၊ တို့ ရွှေကျင်ဂိုဏ်းကြီးထဲမှာ တိပိဋကဓရအောင်တာ မင်းတစ်ပါးတည်းပဲ ရှိသေးတယ်၊ ထူးလဲ ထူးခြားပါတယ်၊ ဒီဘွဲ့ထူးကို ရဖို့လဲ မလွယ်ပါဘူး၊ ဒါကြောင့် တို့ ရွှေကျင်ဂိုဏ်းကြီးက ဂုဏ်ယူတယ်၊ ဝမ်းလဲမြောက်ပါတယ်၊ တန်ဖိုးလဲ ထားပါတယ်၊ အဲဒီအကြောင်းတွေကြောင့်ပဲ မင်းကို တို့က "ရွှေကျင်တိပိဋကဓရ"ဆိုတဲ့ ဘွဲ့ထပ်ပေးဖို့ စဉ်းစားထားကြတယ်၊ အစိုးရက ပေးတဲ့ဘွဲ့အပြင် ဒါ တို့ဂိုဏ်းကြီးက ထပ်ပေးတဲ့ ဘွဲ့ပေါ့၊ ဂုဏ်ရှိပါတယ်၊ အဲဒါ ဘယ့်နှယ်လဲ၊ လက်ခံမလား"

ဤသို့ ဝမ်းသာအားရဖြင့် ပြောကြဆိုကြ ချီးကျူးကြရင်း အရှင်သုမင်္ဂလ၏ သဘောထားကို စုံစမ်းကြ၏၊ လက်ခံ/မခံ ကြိုတင်မေးမြန်းကြ၏၊ ထိုအခါ အရှင်သုမင်္ဂလ က မယုတ်မလွန် ဤသို့ ပြန်၍ လျှောက်လိုက်ရတော့သည်။

"ဒီကိစ္စကို တပည့်တော်မဆုံးဖြတ်တတ်ပါဘုရား၊ တပည့်တော် ဆရာများကို လျှောက်ထားပြီးမှ အဖြေကို ပြန်ကြားပါရစေ၊ တပည့်တော်ဆရာတော်များက "လက်ခံလိုက်"ဆိုရင် လက်ခံပါ့မယ်၊ သဘောမတူကြရင်တော့ လက်မခံဝံ့ပါဘုရား"

ဤသို့ ပြန်၍ လျှောက်ထားသောအခါ "အေး...

မင့် ဆရာတော်တွေဆိုတာကို လျှောက်ကွာ, ဘယ်နှစ်ပါးတောင် လျှောက်ရမှာလဲ၊ ဒီကိစ္စကို တို့မြန်မြန်သိချင်တယ်၊ မင့်ဘက်က သေချာပြီဆိုရင် တို့အမြန်စီစဉ်ကြမယ်၊ အစည်းအဝေးခေါ်ရမယ်၊ အားလုံးညှိနှိုင်းတိုင်ပင်ကြရမယ်၊ ထိုက်ထိုက်တန်တန် ပူဇော်ကြမှာပါ၊ ခမ်းခမ်းနားနား ပူဇော်ပွဲကြီးလုပ်ပြီးမှ ဆက်ကပ်ကြမှာပါ၊ ဂုဏ် မငယ်စေရပါဘူး၊ မင်းလျှောက်ရမယ့် ဆရာတော်တွေက ဘယ်ဆရာတော်တွေလဲ" ဤသို့ မေးနေသောကြောင့် အရှင်သုမင်္ဂလက...

"ပထမဦးစွာ အမရပူရ မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသပါဘုရား၊ ပြီးမှ ဒုတိယတစ်ဆင့်တက်ပြီး ဝိသုဒ္ဓါရုံ မြောင်းမြ ရွှေကျင်သာသနာပိုင်ဆရာတော်ဘုရားကြီးပါဘုရား"

ဤသို့ဖြေကြားခဲ့ပြီးနောက် အရှင်သုမင်္ဂလသည် အစီအစဉ်အရ ဦးစွာပထမလျှောက်ရမည့် ဆရာရင်းထံသို့ ချဉ်းကပ်ခဲ့၏၊ မှန်ပေသည်, အရှင်သုမင်္ဂလကား ဆရာတော် အရှင်ဇနကာဘိဝံသ မွေးဖွားရာ သရိုင်ရွာအနီး အင်ကြင်းပင်ရွာမှ ဖြစ်၏၊ ရပ်ဆွေရပ်မျိုးဖြစ်သည့်ပြင် ငယ်စဉ်ကပင် ဆရာတော်၏ ခြေရင်းသို့ ရောက်နေခဲ့သည်၊ ထို့ကြောင့် ဆရာရင်းထံသို့ ချဉ်းကပ် လျှောက်ထားရာ ခဏမဆိုင်းဒိုင်းဒိုင်းပြေး ဆုံးဖြတ်ပြီး အစပိုင်းက ဖော်ပြခဲ့သည့်အတိုင်း ပယ်ချတော်မူလိုက်သည်။

## ပိုင်းခြားသည့်စည်းရိုးမထား

ဤကိစ္စမျိုးနှင့်ရင်ဆိုင်ကြုံတွေ့ရလျှင် ဆရာတော်မှာ တွေဝေစဉ်းစားနေရသည် မဟုတ်ချေ၊ အစကတည်းက စဉ်းစားထားပြီးဖြစ်သည်၊ ဂိုဏ်းဂဏကိစ္စတို့၌ အမြင်ကျဉ်းမှု ပိုင်းခြားမှု စည်းရိုးထားမှုစသည်တို့ကို ဆရာတော်က မနှစ်သက် မလိုလားပေ၊ ကျယ်ကျယ်ပြန့်ပြန့် သဘောထားမှုကိုသာ လိုလားတော်မူသည်၊ အချိန်အခါနှင့် အခြေအနေအရ ရှေးအခါက ရှေးဆရာတော်ကြီးများသည် အကြောင်းအားလျော်စွာ မည်သို့ပင် ကျင့်သုံးခဲ့ရသော်လည်း ယခုအခါတွင်ကား ဘုရားရှင်၏ ဝိနည်းသာသနာတော်ကိုသာ ဦးထိပ်ထား၍ စုစုစည်းစည်းဖြစ်ဖို့ရန် အချိန်က တောင်းဆိုလျက် ရှိချေပြီ၊ ဆရာတော်ကလည်း သာသနာတော်၌ အလုပ်တွေ မတွင်တိုင်း ထိုအချက်ကို ထောက်ပြ၍ မကြာ မကြာ မိန့်ဟတတ်သည်။

"သာသနာမှာ အလုပ် လုပ်စရာတွေ အများကြီး ရှိပါတယ်၊ တစ်ပါးတည်း လုပ်လို့ မကုန်နိုင်ဘူး၊ နှစ်ပါး သုံးပါး လေးပါး ငါးပါး လုပ်လဲ မကုန်နိုင်သေးဘူး၊ စုပေါင်း လုပ်နိုင်ကြမှ အလုပ်တွေကို နိုင်မှာပဲ၊ ဒီတော့မှ အကျိုးအမြတ်တွေလဲ ပေါ်လာမှာပဲ၊ ဒါကြောင့် ဂိုဏ်းဂဏစိတ်တွေ ဖယ်ထား, သူ့ အုပ်စု ငါ့ အုပ်စု မခွဲခြားဘဲ သာသနာကို တစ်သားတည်း စုပေါင်းပြီး လုပ်ကြရလျှင် အလုပ်တွေ အများကြီး ပြီးမှာ"ဟူ၍ ဖြစ်၏။

ဤသို့လျှင် ဆရာတော်၏ နှလုံးသား၌ ရွှေကျင်သုဓမ္မာ ဒွါရ စသည် မခွဲခြား, သာသနာတော်သည် တစ်သားတည်း ဖြစ်၏၊ ပိုင်းခြားထားသော စည်းရိုးများ မရှိပေ၊ ရှိပြီးသား စည်းရိုးတွေကိုပင် ဖယ်ရှားလိုသော ဆန္ဒ ပြင်းပြနေဟန်ရှိ၏။

ထို့ကြောင့်လည်း "ရွှေကျင်တိပိဋကစရေ"ဟူသော အစီအစဉ်ကို ပီပြင်စွာ ပြတ်ပြတ်သားသား ရှင်းလင်းပြောပြ၍ ပယ်ချတော်မူလိုက်ခြင်း ဖြစ်ပေသည်။

ထို့ကြောင့်လည်း ဆရာတော် အရှင်ဇနကာဘိဝံသကို ဂိုဏ်းပေါင်းစုံ သံဃာတော်အရှင်မြတ်တို့က မြင်ကြသည်မှာ "အရှင်ဇနကာဘိဝံသဟူသည် ရွှေကျင်ဂိုဏ်း တစ်ဂိုဏ်းတည်းကသာ ပိုင်သော ပုဂ္ဂိုလ်မဟုတ်, ဂိုဏ်းပေါင်းစုံ တစ်သာသနာလုံးက ပိုင်သောပုဂ္ဂိုလ်မြတ်တစ်ပါး ဖြစ်သည်"ဟူ၍ ခံယူဆုံးဖြတ်ထားကြ၏။

## တစ်မျိုးတည်းသောခေါင်းစီးဖြင့် ပေါင်းစည်းသင့်ကြပြီ ကြို့တောင်ကြို့ခဲ ဤပွဲကြီးမှာ

တစ်ချိန်ကလည်း ဆရာတော် အရှင်ဇနကာဘိဝံသသည် ဆဋ္ဌသင်္ဂါယနာပွဲကြီးကိစ္စအတွက် ရန်ကုန်မြို့ ကမ္ဘာအေးကုန်းမြေ တည်းခိုရာကျောင်းဆောင်သို့ ရောက်ရှိနေ၏၊ တစ်နေ့သောနံနက်ခင်းတွင် နေ့လယ်ပိုင်းအစီအစဉ်များအတွက် ကြိုတင်၍ လုပ်ငန်းများ ပြင်ဆင်နေကြရ၏၊ ပဓာနဝန်ဆောင်ဆရာတော်ကြီးများ အတော်စုံစုံ ပါဝင်စုစည်းနေခိုက်ဖြစ်သည်၊ အခွင့်ကောင်းဆိုက်ပြီဟုလည်း ယူဆဟန်ရှိပေ၏၊ ထိုစဉ်တွင် အရှင်ဇနကာဘိဝံသ ဆရာတော်က ထူးခြားသောအဆိုတစ်ခုကို လျှောက်လိုက်သည်၊ ဆရာတော်ကြီးများဘက်ကို လှည့်၍ ရိုသေစွာ လက်အုပ်ချီပြီးလျှင် ...

"ဆရာတော်ကြီးများဘုရား... တပည့်တော်ကို လျှောက်တင်ခွင့်ပြုပါ၊ တပည့်တော်များ တစ်သက်မှ တစ်ခါ တွေ့ချင်မှ တွေ့နိုင်တဲ့, ကြုံချင်မှ ကြုံနိုင်တဲ့ အခုလို ဆဋ္ဌသင်္ဂါယနာပွဲကြီး, ဒီပွဲကြီးမျိုးနှင့် ကြုံတုန်းမှာ (အခု ဆောင်ရွက်နေတဲ့ ကိစ္စများအပြင်) အခြားအလုပ်တစ်ခုကိုလဲ ထူးထူးခြားခြား သမိုင်းဝင်အနေဖြင့် ဆရာတော်ဘုရားကြီးများ ဆောင်ရွက်စေချင်ပါသေးသည်ဘုရား"

ဤသို့ အရှင် ဇနကာဘိဝံသက စကားစပျိုး၍ လျှောက်တင်လိုက်သောအခါ ဝန်ဆောင်ဆရာတော်သံဃာတော်များ ခေတ္တ ငြိမ်သွားကြ၏၊ "ဘာများလျှောက်တင်မလို့ပါလိမ့်"ဟူသော မျက်လုံးများဖြင့် ဝိုင်း၍ ကြည့်ကာ ငံ့လင့်နေကြသည်၊ ပြီးမှ ဆရာတော် တစ်ပါးက "ဦးဇနကက ဘာများလုပ်စေချင်လို့လဲ"ဟု လှမ်း၍ မေးရင်း စကားစကို ဆက်ပေးသည်။

## စည်းရိုးတွေ ဖယ်, ဆိုင်းဘုတ်တွေ ဖြုတ်

"ဒီလိုပါဘုရား၊ အခု တပည့်တော်များရဲ့ မြန်မာပြည် သာသနာတော်တွင်းမှာ ရွှေကျင် သုဓမ္မာ ဒွါရ ငှက် စသည်ဖြင့် ဂိုဏ်းဂဏတွေဖွဲ့ပြီး ကိုယ့်အုပ်စုနှင့်ကိုယ် အကန့်ခြားလို့ ကျင့်သုံးနေထိုင်ပါတယ်၊ ဒီလို အပိုင်းအခြား စည်းရိုးတွေထားပြီး နေလာကြတော့ စိတ်ဓာတ်အားဖြင့်လဲ အကန့်အခြားလေးတွေ ဖြစ်ပေါ်ကုန်ကြပါတော့တယ်ဘုရား၊ စိတ်ဓာတ်တွေ ကွဲပြားတော့ ပုဂ္ဂိုလ်ချင်းများလဲ ဟပ်မရ, လုပ်ငန်းချင်းများလဲ စပ်မရ ဖြစ်လာကြပါတော့တယ်၊ ဒီတော့ကာ သာသနာတော်အတွက် အလုပ် လုပ်ရတာ မတွင်ကျယ်အောင် ဖြစ်လာပါတော့တယ်ဘုရား၊ ဒါကြောင့် ရွှေကျင် သုဓမ္မာ ဒွါရ ငှက် စတဲ့ ကိုယ်ပိုင်ဆိုင်းဘုတ်တွေ အကုန်ဖြုတ်ပြီး ဘုရားသားတော် သံဃာတော်တစ်မျိုးတည်းခေါင်းစီးနှင့် ပေါင်းစည်းဖို့ အလုပ်ပါပဲဘုရား"

ဤသို့ မကြောက်မရွံ့ နောက်မတွန့်ဘဲ ရဲရဲဝံ့ဝံ့ လျှောက်တင်လိုက်လေသည်၊ ထိုအခါ ပတ်ဝန်းကျင် သံဃာအားလုံးက အံ့အားသင့်သွားကြရတော့၏၊ "မည်သူမျှ မကြံစည်ဝံ့သော အကြံကြီးကို ကြံ၍ လျှောက်တင်ရဲပေသည်"ဟူ၍လည်း အောက်မေ့ကြဟန်ရှိ၏။

ထိုစဉ်တွင် အနီး၌ ရွှေကျင်ဒုတိယသာသနာပိုင် မြောင်းမြဆရာတော်ဘုရားကြီးသည်လည်း ထိုင်လျက် ရှိတော်မူ၏၊ ရွှေကျင်ဂိုဏ်းကြီးနှင့်ပတ်သက်လာလျှင် ထိုစဉ်အခါက ထိုဆရာတော်ဘုရားကြီးပင်လျှင် ရှေ့တန်းကပါဝင်၍ စီရင်ဆုံးဖြတ်မြဲ ဖြစ်သည်၊ ထို့ကြောင့် သံဃာအများစုက ဆရာတော်ဘုရားကြီးကိုတစ်လှည့်, အရှင်ဇနကာဘိဝံသကိုတစ်လှည့်, နောက်တစ်ဖန် အရှင်ဇနကာဘိဝံသကိုတစ်လှည့်, ဆရာတော်ဘုရားကြီးကိုတစ်လှည့်, မျက်လုံးပုခက်လွှဲ၍ အကဲခတ်နေကြ၏။

"ဆရာတော်ဘုရားကြီးက မည်သို့ အဖြေပေးမည်လဲ"ဟု ရင်ထဲမှာ တနွေးနွေးဖြင့် စောင့်စားနေကြဟန်ရှိသည်။

## သမိုင်းကြောင်းအပြောင်းမခံနိုင်

ဆရာတော်ဘုရားကြီးကား ဣန္ဒြေကြီးမားတော်မူလှ၏၊ ပရိယတ် ပဋိပတ် ဂုဏ်အင်တို့အပြင် ဖြူစင်ဖွေးလွှသော သီလ သမာဓိတို့လည်း စုံလင် စူးရှထက်မြက်၍ (ဒီဃဒဿီ)အရှည်ကိုလည်း မျှော်မြင်နိုင်စွမ်းရှိသောကြောင့် ရွှေကျင်ဂိုဏ်းကြီးက ရွေးကောက်၍ ဥပဥက္ကဋ္ဌတင်မြှောက်ထားခြင်းခံရသော ဆရာတော်ဘုရားကြီးမဟုတ်ပါလော၊ ထို့ကြောင့်လည်း ဆရာတော်ဘုရားကြီးသာ ပဓာန, ဆရာတော်ဘုရားကြီးသာ အဓိကအဖြစ်ဖြင့် မျှော်လင့်စောင့်စား အများက ငံ့လင့်နေကြသည်၊ ထို့နောက်တွင် ဆရာတော်ဘုရားကြီး၏ အသံတော်က ငြိမ်သက်နေသော ပရိသတ်ကို ထိုးဖောက်လိုက်ပါတော့၏၊ အသံဝါ အသံသြကြီးဖြင့် မာကျောတိကျစွာ တည်ငြိမ်ပြတ်သားစွာ ပေါ်လာတော့သည်။

"တို့ကို ရွှေကျင်ဂိုဏ်းကြီးက ယုံကြည်လို့ ဒီနေရာ ဒီကုလားထိုင်ကို (ဥပဥက္ကဋ္ဌနေရာကို ဆိုလိုသည်) ပေးထားတာ, ဂိုဏ်းကြီးရဲ့ ယုံကြည်မှုကိုတော့ မပျက်အောင် ထိန်းသိမ်းရမှာပဲ၊ ဒီတော့ ဒီကုလားထိုင်ပေါ်မှာ ထိုင်နေရသမျှ တို့က နှစ်ပြားသားမှ မလျှော့နိုင်ဘူး" ဟူ၍ အဖြေပေးလိုက်တော့သည်။

ဆရာတော်ဘုရားကြီး၏ အဖြေမှာ မိုးကြိုးပစ်သလို "ဒင်း"ခနဲနေတော့၏၊ မီးပွင့်သွားသလို ဖြစ်တော့သည်၊ ထိုအခါမှ ပရိသတ်လည်း လှုပ်လှုပ်ရွရွ အသက်ဝင်လာသလို ဖြစ်ကြရတော့သည်။

အရှင်ဇနကာဘိဝံသ၏ မျှော်လင့်ချက်, ရည်မှန်းချက်, တောင့်တချက်, လျှောက်တင်ချက်တို့ကား ထိုနေရာတွင်ပင် လေထဲ၌ ပြန့်လွင့် ပျောက်ကွယ်ကုန်ရ, နိဂုံးချုပ်ကြရတော့သည်၊ သာသနာ့သမိုင်းစဉ်ကြီး ပြောင်းလွဲသွားမည့် အခြေအနေကိုလည်း ဆရာတော်ဘုရားကြီး၏ ထိုအဖြေက ဟန့်တားလိုက်လေသည်။

ဤသို့လျှင် အရှင်ဇနကာဘိဝံသ ဆရာတော်မှာ ဖြစ်ချင်တိုင်း မဖြစ်ရပါ၊ စိတ်သွားတိုင်း ကိုယ်မပါ၊ ကြိုးစားတိုင်း မအောင်မြင်ပါ၊ ထိုအခါ သာသနာတော်အတွက် ဆောင်ရွက်ရာ၌ အားမလို အားမရဖြစ်နေရဟန်တူပါ၏၊ ထို့ကြောင့်လည်း သူ့မှာ "သွားလည်း ဒီစိတ်, စားလည်း ဒီစိတ်, အိပ်လည်း ဒီစိတ်"ဟူသကဲ့သို့ ဖြစ်နေရဟန်တူပါသည်။

**မှတ်ချက်။** ။စင်စစ်သော်ကား မြောင်းမြဆရာတော်ဘုရားကြီးသည် တာဝန်နှင့် ခံယူချက်သဘောထားကို ကွဲပြားစွာ တစ်ကန့်စီ အလုပ်လုပ်တော်မူခြင်းဖြစ်၏၊ ရွှေကျင်ဂိုဏ်းကြီးက ဆရာတော်ဘုရားကြီးအား ယုံကြည်မှုနှင့် တာဝန်ပေးချက်အရ ထိုတာဝန်ကို အတိအကျ အပြည့်အဝ မတိမ်းစောင်းအောင် ထမ်းဆောင်တော်မူခြင်းသာ ဖြစ်သည်။

ဆရာတော်ဘုရားကြီးတစ်ပါးတည်း၏ ခံယူချက်သဘောထားကား "သာသနာဟွင် သီလ သမာဓိ ပညာတို့သာ ပဓာနအဓိကဖြစ်သည်"ဟု မိန့်တော်မူလေ့ရှိတတ်ပါ၏၊ နီးစပ်ရာ ဒါယကာ ဒါယိကာမတို့အား မိန့်ကြားတတ်သည်မှာ "ရွှေကျင်ဂိုဏ်းဝင် ဆရာတော် သံဃာတော်များချည်း သူတော်ကောင်းမထင်နှင့် သုဓမ္မာဂိုဏ်းထဲမှာ ဒွါရ ငှက် စတဲ့ ဂိုဏ်းတွေထဲမှာ သီလ သမာဓိ ပညာ မေတ္တာ ကရုဏာ ဂုဏ်တွေနှင့် ပြည့်စုံတဲ့ ပုဂ္ဂိုလ်မွန် ပုဂ္ဂိုလ်ကောင်းတွေ အများကြီး ရှိတယ်၊ အထင်မသေးကြနှင့်၊ သာသနာတော်ရဲ့ အနှစ်သာရ အဓိကဂုဏ်တွေဟာ ဒါပဲ"ဟု မိန့်တတ်၏၊ ထို့ကြောင့် အပြန်အားဖြင့် အဓိပ္ပာယ်ယူရသော် "ဂိုဏ်းတို့, နာမည်တို့က ပဓာနမဟုတ်"ဟု ဆိုလိုရာရောက်တော့သည်။

## လုံ့လရှိကြ, ကြိုးစားကြရမယ်

၁။ အကြင်သူသည် အိပ်ပျော်နေ၏၊ ထိုသူ၏ ဘုန်းကံ ပါရမီ အရှိန်အဝါတို့သည်လည်း အိပ်ပျော်နေကြကုန်၏။

၂။ အကြင်သူသည် အိပ်ရာမှ နိုးလာ၏၊ ထိုသူ၏ ဘုန်းကံပါရမီ အရှိန်အဝါတို့သည်လည်း လှုးလွန့်လာကြကုန်၏။

၃။ အကြင်သူသည် အလုပ်လုပ်ရန် ထ၍ထိုင်၏၊ ထိုသူ၏ ဘုန်းကံပါရမီ အရှိန်အဝါတို့သည်လည်း ခေါင်းထောင်၍လာကြကုန်၏။

၄။ အကြင်သူသည် လုပ်ငန်းခွင်သို့ စ၍ ဝင်၏၊ ထိုသူ၏ ဘုန်းကံပါရမီ အရှိန်အဝါတို့သည်လည်း အကျိုးပေးဖို့ရန် အသင့်အနေအထား စောင့်စား၍ နေကြကုန်၏။

၅။ အကြင်သူသည် လုပ်ငန်းကို ဆုံးခန်းတိုင်ရောက်ပြီးမြောက်အောင် ဇွဲသန်သန်ဖြင့် ပြုလုပ်၏၊ (ထိုအခါတွင်) ထိုသူ၏ဘုန်းကံပါရမီ အရှိန်အဝါတို့သည် လန်းလန်းဆန်းဆန်းဖြင့် ပြုံးပန်းပွင့်ကာ အပြည့်အဝ အကျိုးပေးကြကုန်တော့၏။

## လုပ်အားနှင့်လုပ်ခ ဒွန်တွဲလျက်

ဆရာတော် အရှင်ဇနကာဘိဝံသသည် ကမ္မနှင့် ကမ္မဖလကို ကျကျနန ယုံကြည်သဘောပေါက်ထားသော ဆရာတော်ဖြစ်၏၊ တစ်နည်းအားဖြင့် အကြောင်းနှင့်အကျိုးတို့၏ ဖြစ်ပုံကို တိတိပပ မြင်ထားသော ဆရာတော်တစ်ပါးဖြစ်သည်၊ (ကမ္မ=လုပ်အား, ကမ္မဖလ=လုပ်ခ) တစ်စုံတစ်ယောက်သော ပုဂ္ဂိုလ်သည် လုပ်အားပေးလျှင် လုပ်ခရနိုင်သည်၊ လုပ်အားမပေးလျှင် လုပ်ခကို မုချမရနိုင်၊ ထို့ကြောင့် လုပ်ခကိုလိုချင်လျှင် လုပ်အားပေးရမည်၊ ကြီးပွားချင်လျှင် လုံ့လအားဖြင့် ကြိုးစားရမည်ဟု ဆိုလို၏၊ (ဤနေရာ၌ လုပ်အားဟူသည် ကာယအား ဉာဏအားဟု နှစ်မျိုးရှိနိုင်၏။)

ဤသည်တို့ကို ထောက်ရှုခြင်းအားဖြင့် တစ်စုံတစ်ယောက်သော ပုဂ္ဂိုလ်၏ဘဝ၌ ကြီးပွားနေခြင်း, အကျိုးရနေခြင်းဟူသမျှတို့သည် တစ်စုံတစ်ဦးသော တန်ခိုးရှင်က ဖန်ဆင်းပေးသည်မဟုတ်၊ မိမိ၏ ဉာဏ်ရှေ့သွား ကိုယ်ပိုင်လုပ်အားမှ ဖြစ်ပေါ်လာကြသော အကျိုးအမြတ်တို့သာ ဖြစ်ကြကုန်၏ဟု သိနိုင်ပေသည်၊ ဤသို့လျှင် ဆရာတော်က သိမြင်ထားပြီးဖြစ်၍ တပည့်အများတို့အား ကြီးပွားစေလိုသည့်အတွက် "လုံ့လရှိကြ, ကြိုးစားကြ"ဟု ခဏ ခဏ တဖွဖွ သတိပေးမိန့်ကြားနေခြင်း ဖြစ်ပေသည်။

## ဆရာ့လုံ့လ ကြီးမားစွ

ဆရာတော်သည် တပည့်တို့အားသာ လုံ့လကြီးမားဖို့, ဇွဲသန်ဖို့, အလုပ်လုပ်ဖို့ နှိုးဆော်နေတတ်သည်မဟုတ်သေး၊ ကိုယ်တော်တိုင်လည်း လုံ့လအားဇွဲအား ဉာဏ်အား သန်ထွားတော်မူပေ၏၊ အရာခပ်သိမ်းဝယ် မျက်စိကို ဖွင့် နားကို စွင့်၍ အသင့်အနေအထား ရှိသကဲ့သို့ ဖြစ်တော်မူ၏၊ ဆရာတော်သည် စာချချိန်ရောက်၍ တုံးခေါက်လျှင် စာချသည့်နေရာသို့ အဦးဆုံး ရောက်နှင့်နေတတ်၏၊ စာသင်သား ဘဝတုန်းကလည်း ဤသို့ပင် ဦးစွာရောက်လေ့ရှိတတ်သည်ဟူ၏၊ နောက်ကျနေတတ်သည်ဟူ၍ မရှိချေ၊ အချိန်ကိုလည်း လေးစား၏၊ တိကျမှု ကြိုက်သည်၊ "တရားဟောကြွပါရန် နက်ဖြန် ဘယ် အချိန်လောက် လာပင့်ပါမည်"ဟု လျှောက်လျှင် နာရီဝက်စောပြီး သက်န်းရုံ၍ အသင့်ဖြစ်နေတတ်၏၊ နေ့စဉ်စာရေးခြင်းကိစ္စများ၌လည်း အချိန်မှန်နေတတ်၏၊ ဤသည်တို့ကား ဆရာ့မျိုးရိုးကို လိုက်ဟန်တူ၏။

ဤဆရာတော်၏ ဆရာတော်များ ဖြစ်တော်မူကြကုန်သော မြောင်းမြဆရာတော်, အဘယာရာမဆရာတော်တို့လည်း ဤအတိုင်းပင် ဟူ၏၊ ယင်းဆရာတော်တို့က ဆိုလျှင် နာရီထိုးသည်နှင့် စာချသည့်နေရာကို ရောက်နေ၏၊ မည်သူမျှ မလာကြသေးသော်လည်း အချိန်ကျပြီဆိုလျှင် တစ်ပါးတည်းထိုင်၍ စာချ, အဓိပ္ပာယ်ပြောနေတတ်ကြသည်ဟူ၏၊ တပည့်စာသင်သားတို့ကား ဆရာတော့် လုံ့လကို မမီကြ, အရာရာမှာ အိတွဲတွဲဖြင့် ဖင့်နွှေးတတ်ကြသည်၊ ဤသည်တို့ကို ဆရာတော်က အားမရနိုင်၍ ခဏ ခဏ ဆူတတ်သည်။

"မင်းတို့တစ်တွေ အရာရာတွင် အကြောင်းရှိမှ အကျိုးဖြစ်တယ် ဆိုတာကို သဘောပေါက်ဖို့ လိုတယ်၊ မင်းတို့တစ်တွေက ယခုမျက်မှောက်ဘဝမှာ

အကြောင်းတရား မလုပ်ချင်ကြဘူး၊ ရှေးဘဝါဘဝတွေက လုပ်ပြီးသား အကြောင်းကံတရားကိုပဲ မျှော်ချင်ကြတယ်၊ ရှေးကံတရားအရ အလိုလို ကြီးပွားလာတာကို တောင့်တချင်ကြတယ်၊ သည်လို မဟုတ်ဘူးကွယ့်၊ ရှေးကံ လာဖို့ အခွင့်သာအောင် ယခုမျက်မှောက်ဘဝမှာ လုံ့လဝီရိယနဲ့ ဉာဏ်နဲ့ လမ်းရှင်းပေးထားရတယ်၊ အဲလို လမ်းရှင်းပေးမထားဘူးဆိုရင် အကျိုးပေးဖို့လာမယ့် ရှေးကုသိုလ်ကံတွေဟာ ရှောရှောရှူရှူ မလာချင်တတ်ဘူး၊ နောက်သို့ပင် ပြန်ဆုတ်တတ်တယ်ကွဲ့"

ဤသို့ မိန့်တော်မူပြီးလျှင် "ကာလိင်္ဂနှင့်အဿကမင်းတို့၏ စစ်တိုက်ခန်းကိုလည်း သာဓကအဖြစ် ဆက်လက်ပြောတတ်သေးသည်။

## မင်းနှစ်ပါး၏ရှေ့တန်းစစ်မျက်နှာ

### သိကြားမင်းက နိုင်မယ်တဲ့

ရှေးတုန်းက ကာလိင်္ဂမင်းနှင့် အဿကမင်းတို့ စစ်တိုက်ကြမယ်လို့ စစ်မျက်နှာကို ရောက်နေကြတယ်၊ တစ်ဖက်နှင့်တစ်ဖက် စောင့်နေကြပြီး အချိန်မကျသေးလို့ မတိုက်သေးဘူး၊ အဲဒီအနားမှာပဲ တို့ဘုရားလောင်းရသေ့ကြီးရဲ့သင်္ခမ်းကျောင်းကလေးလဲ ရှိတယ်၊ သိကြားမင်းက မကြာခဏလာပြီး တရားနာလေ့ရှိတယ်၊ ကာလိင်္ဂမင်းရဲ့ဘက်က ခေါင်းဆောင်လူတစ်ယောက်က ရသေ့ကြီးထံ သွားတယ်၊ စကားစမြည်ပြောပြီးနောက် "ယခု မင်းနှစ်ပါးစစ်တိုက်ကြပါတော့မယ်၊ ဘယ်သူ့ဘက်က နိုင်စရာရှိပါသလဲ" လို့ ဗေဒင်မေးသလို မေးတယ်၊ ရသေ့ကြီးက "ငါမသိဘူး, ငါ့ဆီကို သိကြားမင်းတော့ လာလေ့ရှိတယ်၊ ဒီကနေ့ လာမယ့်နေ့ပဲ၊ သူ့ကို မေးပြီးမှ ပြောမယ်၊ နက်ဖြန်လာခဲ့"လို့ မှာလိုက်တယ်။

သိကြားမင်းလာတဲ့အခါမေးတော့ ကာလိင်္ဂမင်းဘက်က နိုင်လိမ့်မယ်၊ ရှေးပြေးနိမိတ်တွေက တယ်ထင်ရှားတယ်၊ ကာလိင်္ဂမင်းရဲ့အစောင့်အရှောက်နတ်ပါ နွားလားဥသဘ အယောင်ဆောင်ပြီး တိုက်လိမ့်မယ်၊ သူ့အသွေးအမွေးက ဖြူဖွေးနေတယ်၊ အဿကမင်းဘက်နတ်ကလည်း နွားလားဥသဘယောင်ဆောင်ပြီး တိုက်မှာပဲ၊ ဒါပေမယ့် အသွေးအမွေးတွေက မည်းနေတယ်၊ မည်းတဲ့နတ်ဘက်က ရှုံးလိမ့်မယ်၊ နတ်ရှုံးရင် လူတွေလဲ ရှုံးကြမှာပဲလို့ သိကြားမင်းက လျှောက်သတဲ့။

### အကြောင်းရှင်းက ဘာ့ကြောင့်ပါလဲဘုရား

နောက်တစ်နေ့ လာတဲ့အခါ "ကာလိင်္ဂမင်းဘက်မှ နိုင်လိမ့်မယ်တဲ့"လို့ ရသေ့ကြီးက ပြောလိုက်ရင်ပဲ ဝမ်းသာလွန်းလို့ မြူးပြီး စစ်တပ်ကို ပြန်ပြေးသွားသတဲ့၊ စစ်တပ်ရောက်တော့ သတင်းကို ဖောက်သည်ချလို့ သိရတဲ့အတွက် တစ်တပ်လုံး တပြုံးပြုံးနဲ့ ခုန်ပေါက်မြူးနေကြသတဲ့။

ဒါတွင်မက "ဘာပဲဖြစ်ဖြစ် တို့ဘက်က နိုင်မှာပဲ" ဆိုတဲ့ စိတ်ဓာတ်နဲ့ သောက်စားပျော်ပါးနေကြသတဲ့၊ ဒီသတင်းကို အဿကမင်းဘက်ကလဲ ကြားတယ်၊ ဒါကြောင့် အဿကမင်းကြီး မှိုင်နေတယ်၊ ဒါနဲ့ အရှင်သာရိပုတ္တရာအလောင်း နန္ဒိသေနစစ်သူကြီးက ဒီသတင်း ဟုတ်/မဟုတ် သေချာအောင် ရသေ့ကြီးထံ သွားတယ်၊ ရသေ့ကြီးကလဲ "ကာလိင်္ဂမင်းဘက်က နိုင်လိမ့်မယ်"လို့ပဲ ပြောပြန်တယ်။

"ဟုတ်ပြီ, ဘာကြောင့် "ကာလိင်္ဂမင်းဘက်က နိုင်မှာပါလဲဘုရား"ဟု အကြောင်းရင်းကို ဆက်လက်လျှောက်ပြန်သောအခါ ရသေ့ကြီးက ရှေ့ပြေးနိမိတ်တွေ ဖြစ်ပုံ, ကိုယ်စောင့်နတ်ချင်းလဲ တိုက်ကြမယ့်ပုံ, "ကာလိင်္ဂမင်းဘက်နတ်က ဖြူနေပုံ, အဿကမင်းဘက်နတ်က မည်းနေပုံတို့ကိုပါ ပြောလိုက်တယ်၊

အဲလို တိုက်ကြတဲ့အခါ နတ်ချင်းရှုံးရင် လူချင်းလဲ ရှုံးကြမှာပဲလို့ ပြောလိုက်တော့ နန္ဒိသေနစစ်သူကြီးက "ကောင်းပြီ"ဆိုတဲ့သဘောနဲ့ ပြန်လာတယ်။

စစ်တပ်ရောက်တော့ သူ့ရဲကောင်းတစ်ထောင် ဒေါင်ဒေါင်မာကို ရွေးပြီး တောင်ထိပ်ပေါ် ခေါ်သွားတယ်။

## ရဲစွမ်းသတ္တိ ရှိ/မရှိ စမ်းသပ်

တောင်ထိပ်ပေါ် ရောက်တော့ ရပ်တန့်ပြီး... "ရဲဘော်တို့...တို့ မင်းတရားအတွက် အသက်ကို စွန့်ဝံ့ကြရဲ့လား"လို့ မေးတော့ အားလုံးကပဲ "စွန့်ဝံ့တယ်, စွန့်ဝံ့တယ်"လို့ ဖြေကြသတဲ့။

"ကဲ-စွန့်ဝံ့ကြရင် နည်းနည်းနောက်ဆုတ်, အရှိန်ယူပြီး ပြေးလာခဲ့, ဒီတောင်ထိပ်ပေါ်က ခုန်ချကြရမယ်"လို့ ပြောလိုက်ရင်ပဲ အားလုံး အရှိန်ယူ ခုန်ချမယ်လို့ ပြေးလာကြသတဲ့။

ဒီတွင် "နေကြဦး, နေကြဦး"လို့ လက်ကာ ရပ်တန့်ထားပြီး "အဲဒီ သတ္တိတွေကို ဒီနေရာမှာ မသုံးကြပါနဲ့, စစ်တိုက်တဲ့နေရာမှာ ရွှပ်ရွှပ်ချွံချွံသုံးကြပါ" လို့ မှာပြီး ပြန်ဆင်းလာခဲ့ကြသတဲ့။

ကာလိင်္ဂမင်းရဲ့ စစ်တပ်ကတော့ "ငါတို့ ဧကန် နိုင်မှာပဲ, နိုင်မယ်ဆိုမှတော့ ဘာပဲဖြစ်ဖြစ် နိုင်မှာပဲ" လို့ဆိုပြီး သောက်စား ပျော်ပါး မြူးထူးပြီး ပေါ့ပေါ့ ဆဆနှင့် သွေးအေးပြီး နေကြသတဲ့။

အဲဒီနောက် စစ်တိုက်ခါနီးမှာ ရှင်ဘုရင်နှစ်ဦး မြင်းကိုယ်စီ စီးပြီး ထွက်လာကြရင်ပဲ နတ်နှစ်ဦးလဲ စစ်တိုက်ကြမယ့်ပုံဟန်နှင့် ရှေ့က ပါလာကြသတဲ့၊ အဲဒီ နတ်နှစ်ဦးကို ရှင်ဘုရင်နှစ်ဦးကသာ မြင်ကြရတယ်၊ အခြားတပ်သားတွေက မမြင်ကြရဘူးတဲ့၊ ပြီးတော့ အဿကမင်းရဲ့နတ်က ကြောက်နေသလို တုန်တုန်ခိုက်ခိုက်လဲ ဖြစ်နေသတဲ့။

## ဉာဏ်နှင့်လုံ့လ သတ္တိသာ ပဓာန

ဒီတွင် နန္ဒိသေန စစ်သူကြီးက အဿကမင်း အနားကပ်ပြီး "အရှင်မင်းကြီး... ဘာများ ထူးထူး ဆန်းဆန်း မြင်ပါသလဲ"လို့ တိုးတိုးမေးတော့ "နတ်နှစ်ဦး စစ်တိုက်မယ်လို့ ဟန်ပြင်နေကြတယ်၊ တို့ဘက်က နတ်က ကြောက်နေပုံရတယ်"လို့ ဖြေသတဲ့၊ "အရှင်မင်းမြတ်... သူ့ဘက်က နတ်ကိုသာ အရှင်မင်းမြတ်က မြားနဲ့ ပစ်ခတ်ပါ၊ ကျွန်တော်တို့ သူ့ရဲကောင်း တစ်ထောင်ကလဲ အရှင်မင်းမြတ် ပစ်တဲ့ နေရာကိုပဲ ဝိုင်းပြီး ပစ်ပါ့မယ်"လို့ ပြောသတဲ့၊ ဒီတွင် လူကို မပစ်သေးဘဲ အပေါ်က ပါလာတဲ့ နတ်ကို ချည်း ဝိုင်းပြီးမြားနဲ့ပစ်လိုက်ကြတာ, အဲဒီနေရာမှာပဲ ကာလိင်္ဂမင်းရဲ့နတ်ဟာ ပွဲချင်းပြီးပါရောတဲ့၊ "ဧကန် နိုင်မယ်" ဆိုတဲ့ ဘုရင်လဲ ထွက်ပြေး, ရှင်ဘုရင်ပြေးတော့ တစ်တပ်လုံးလဲ ပြေးကြတာပေါ့။

အဲဒီလို သိကြားမင်းကိုယ်တိုင်က... "ဧကန် နိုင်မယ်"လို့ ဟောကိန်း ထုတ်ထားပေမယ့် လုံ့လ ဝီရိယ မရှိကြတော့ ရှုံးရတယ်၊ ပေါ့ပေါ့ဆဆ သွေးအေးနေကြတော့ ရှုံးရတယ်၊ တစ်ခါ "ဧကန်ရှုံးမယ်" လို့ ဟောကိန်း အထုတ်ခံရပေမယ့် လုံ့လ ဝီရိယနှင့် အကြံကောင်း ဉာဏ်ကောင်းနှင့်ဆိုတော့ နိုင်တာပဲ၊ ဒါကြောင့် တကယ့်အရေးမှာ နတ်မကယ်နိုင်ဘူး၊ သိကြား မကယ်နိုင်ဘူး။

မင်းတို့ ဒီအချက်ကို သတိရှိကြပါ၊ တကယ်ကတော့... မိမိရဲ့ အကြံကောင်း ဉာဏ်ကောင်းနှင့် မှန်ကန်တဲ့ လုံ့လ ဝီရိယတို့ဟာ နတ်ထက်ပင် သာပါတယ်၊ နတ်ထက်ပင် အားကိုးလောက်ပါတယ် ဆိုတာ သင်ခန်းစာ ယူကြစမ်းပါ"ဟု ဩဝါဒရှည်ကြီး ပေးတတ်ပါသည်။

# ဆရာ, ဒကာ နှစ်ဖြာပူးပေါင်းမှ အောင်မြင်နိုင်မည်

## ကြံ့ခိုင်သောစွဲဖြင့် အရင်တည်ခဲ့ရ

ဆရာတော် အရှင်ဇနကာဘိဝံသမှာ ၁၂၉၀ပြည့် နှစ်လောက်မှစ၍ ကျမ်းစာရေးသားခြင်းဖြင့် ဂုဏ်သတင်း ပျံ့သင်းလာခဲ့သည်၊ သို့သော် ပရိယတ် အခြေအရံ မများလှသေးသဖြင့် တစ်ပါးတည်းသာ စာပေဂုဏ်ဖြင့် ထင်ပေါ်လာခဲ့၏၊ ၁၃၀၉ ခု သက်တော် ၄၈ နှစ်လောက်တိုင်အောင်ပင် ဖြစ်သည်၊ သက္ကရာဇ် ၁၃၀၉ ခုနှစ် (ခရစ်သက္ကရာဇ် ၁၉၄၈ ခုနှစ်) မြန်မာနိုင်ငံ လွတ်လပ်ရေးရပြီး နောက်ပိုင်းတွင်မှ တပည့်ပရိသတ်များ တစ်စ တစ်စ တိုးချဲ့လက်ခံလာခဲ့၏၊ တိုးချဲ့လက်ခံလျက် စာပေပို့ချရင်း, ကျမ်းစာများရေးသားရင်း, သံဃာ့ပရိသတ်ကိုလည်း မိမိစိတ်ကြိုက် ပြုပြင်ရင်းဖြင့် စည်းကမ်းရှိ၍ ငြိမ်သက်သော သံဃာ့ပရိသတ်ကြီးနှင့်တကွ အုံနှင့်ကျင်းနှင့် ဖြစ်လာမှ ပို၍ လူသိများလာကြသည်။

ဤအတိုင်းအတာကိုလည်း ၁၀နှစ်ခန့်မျှ ကြိုးစားရ၍ ၁၃၁၉ ခုနှစ်လောက်တွင်မှ နိုင်ငံအနှံ့ ပြန့်ပြန့်ကျယ်ကျယ် သိလာကြသည်၊ ထိုအချိန်တွင် ငြိမ်သက်စည်းကမ်းရှိသော မဟာဂန္ဓာရုံ သံဃာ့ပရိသတ်ကို အစိုးရပြန်ကြားရေးဌာနမှ ရုပ်ရှင် လာ၍ ရိုက်ကူးသည်ကို မှတ်မိ၏။

ဤအချိန်အထိ အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်၌ နေထိုင်ဖို့ အဆောက်အအုံ, ဝတ်ဖို့ အဝတ်သင်္ကန်း, စားသောက်ဖို့ ဆွမ်းကွမ်း မျှတလုံလောက်အောင် မပြည့်စုံကြသေးပါ၊ ဆရာတော်၏ သက်တော်မှာလည်း ၅၈ နှစ်ခန့် ရှိလာလေပြီ၊ မည်သည့် အခြေအနေဖြင့် နေရသည်ဖြစ်စေ ဆရာတော့်ဘဝကား မဆန်းသလို ဖြစ်နေ၏၊ တပည့်ပရိသတ်တို့အား...

"သီလကို လုံခြုံအောင် စောင့်စည်းပါ၊ စည်းကမ်းကို ရိုသေပါ၊ စိတ်ကောင်းနှလုံးကောင်း ထားပါ၊ ဘုရားမျက်နှာကို ကြည့်ပါ၊ ကျန်းမာရေးကို ဂရုစိုက်ကြ"ဟူ၍သာ မိန့်တတ်ပါသည်။

## သာသနာပြုလိုတဲ့ အာသာချင်ခြင်း

ဆရာတော်သည် မိမိကျောင်းတိုက်၌ တစ်နိုင်တစ်မ သာသနာပြုပြင်ရေးလုပ်ငန်း အောင်မြင်နေသည်ကိုကား ကျေနပ်ရသည်၊ သို့သော် မိမိကျောင်းတိုက်တစ်ခုအတွက်သာ ရည်ရွယ်သည် မဟုတ်ပါ၊ တစ်သာသနာလုံးအတွက် ရည်မှန်းထားသည်၊ တစ်သာသနာလုံး ပြုပြင်ရန် စိတ်စောနေခဲ့သည်။

သို့ရာတွင် အချိန်အခါနှင့်အခြေအနေအရ ဖြစ်လာနိုင်ဖို့ မလွယ်၊ တိုင်းပြည်အစိုးရကပါ ကူညီလျှင်ကား ဖြစ်နိုင်ဖွယ်ရှိ၏၊ သို့သော်လည်း မျှော်လင့်ချက်ဝေး၏၊မျှော်လင့်ချက်ဝေးလေတိုင်း စိတ်မောရသည်။

ဆရာတော် အရှင်ဇနကာဘိဝံသကလည်း ..., သာသနာပြုလိုသော အာသာဆန္ဒချင်ခြင်း ပြင်းပြလှ၏၊ ဖြေဖျောက်၍မရနိုင်လောက်အောင် ဖြစ်ရသည်၊ ငယ်ငယ်ကသာဆိုလျှင် ပြဒါးရှင်လုံးကို ရအောင် ရှာရမည်လား, စေတစ်လုံးပိုင်ရှင် ဖြစ်အောင်ပင် လုပ်ရမည်လားဟု စဉ်းစားတွေးတောမိပေမည်။

သို့သော် ယခုကဲ့သို့ ကြောင်းကျိုးသဘာဝကို နားလည်နေသော အသက်အရွယ်ဖြစ်၍သာ ထိုသို့ မစဉ်းစားခြင်းဖြစ်ဟန် ရှိပေသည်။

## သိကြားသေ၍ ခေါင်းလောင်းထိုး

* အင်းဝခေတ်က ဆရာတော်တစ်ပါး ကြားဖူး၏၊ သာသနာစိတ် ပြင်းထန်သည်၊ ဝိနည်းကိုလည်း လေးစား၏၊ စာပေကိုလည်း ပို့ချ၏၊ တပည့်ပရိသတ် သံဃာကိုလည်း ချစ်သည်၊ သာသနာအတွက် အချိန်

---

* သာသနာလင်္ကာရစာတမ်း၊ ဟံသာဝတီ၊ နှာ-၁၃၃၊ ထိုဆရာတော်မှာ အင်းဝစကား စုနစ်ကျောင်းထွက် ပရက္ကမ အနွယ်ဝင် အရှင်ဓမ္မာစာရဆေရ် ဖြစ်သတတ်၊

များစွာ အကျိုးပြုသည်၊ သို့သော် ဘုန်းကံနည်းပါး၍ သူတို့ ဆရာတပည့်တစ်စုမှာ-ပြည့်ပြည့်စုံစုံမရှိလှ၊ မင်းကျွမ်းဝင်သော ဆရာတော် အချို့ဆိုလျှင် နန်းတော်သို့ ထွက်ဝင်သွားလာ၍ ပြည့်လျှံမောက်ဖြိုးနေကြသည်၊ သူတို့မှာ သာသနာအတွက် များစွာ ဆောင်ရွက်လှသည်လည်း မဟုတ်ကြ၊ မိမိတို့မှာကား စားဝတ်နေရေး မပြည့်စုံရုံမက နေရသောကျောင်းကလည်း မိုး မလုံ့၊ စဉ်းစားတိုင်း မကျေနိုင် မနပ်နိုင်ဖြစ်ရသည်၊ နည်းလမ်းရှာ၏၊ မတွေ့၊ စဉ်းစားရ၏၊ မရ၊ သို့နှင့် တစ်နေ့သောညတွင် အချိန်မတော် သန်းခေါင်ကျော် နာရီပြန်နှစ်ချက်တီးခန့်၌ တပည့်ကြီးများကို နှိုး၍ ကျောင်းမှာ ချိတ်ဆွဲထားသော ကြေးစည်, ခေါင်းလောင်း, အုံးမောင်း, ကုလားတက်တို့ကို အချက်ပေါင်းများစွာ ဆူညံသွားအောင် တီးခတ် ရိုက်ထိုးစေလေသည်။

ထိုအခါ နန်းတော်မှ ရှင်ဘုရင်ကြီး ကြား၍ မင်းချင်းများကို စေလွှတ်၏၊ "သွားချေကြ၊ ညအချိန်မတော် ကြေးစည်, ခေါင်းလောင်း, အုံးမောင်း, ကုလားတက်သံများစွာတို့ကို ငါကိုယ်တော်မြတ် ကြားရသည်၊ ဘုန်းကြီးတစ်ပါးပါး ပျံလွန်တော်မူလေသလော၊ စုံစမ်းမေးမြန်းချေကြ" အမိန့်အတိုင်း စေခိုင်းချက်အရ မင်းချင်းများက သွား၍ စုံစမ်းရသည်၊ ထိုအခါ ဆရာတော်က "သိကြားသေလို့ ခေါင်းလောင်းထိုးတာဟေ့"လို့ ဖြေလိုက်သတဲ့။

## ရှင်ဘုရင်ကြီးသဘောပေါက်သွား

နန်းတော်သို့ မင်းချင်းများက ပြန်၍ သံတော်ဦးတင်သောအခါ ရှင်ဘုရင်ကြီးက "ဟဲ့ သိကြားသေတယ်ဆိုတော့ မဖြစ်နိုင်တာ၊ နင်တို့ သိကြားရဲ့ ရုပ်အလောင်းကို မြင်ခဲ့ရလို့လား" "မမြင်ခဲ့ကြရပါ" "သည်လိုဆိုလျှင် ပြန်၍ မေးကြချေဦး, သိကြား ဘယ်လိုသေတာလဲလို့"

မင်းချင်းများက နောက်တစ်ခေါက်ပြန်၍ မေးကြရပြန်သည်၊ ထိုအခါ ဆရာတော်က ဖြေကြားရှင်းလင်းပြ၏၊ "တစ်ချိန်တုန်းက မြတ်စွာဘုရားအား သိကြားက ဝန်ခံခဲ့တယ်ကွ, မြတ်စွာဘုရားမရှိတဲ့အခါ သာသနာတော်ကို ဒကာတော် စောင့်ရှောက်ရစ်ပါမယ်လို့, အခုတို့က သာသနာပြုနေကြတယ်၊ သိကြားမသိဘူး၊ သိကြားမသိဘဲနေတာကို ထောက်ရင် သိကြားသေပြီလို့ ယူဆရတယ်ကွ၊ ဒါကြောင့် အခု တို့က ကြေးစည် ခေါင်းလောင်း အုံးမောင်း တွေကို ထိုးရတာ"ဟူ၍ ဖြေလိုက်လေသည်။

ဤဖြေကြားချက်ကို ရှင်ဘုရင်ကြီးအား ပြန်ကြားသံတော်ဦးတင်လိုက်သောအခါ ရှင်ဘုရင်ကြီး သဘောပေါက်သွားလေ၏၊ ထိုအခါမှ အင်းဝမြို့ ဝမ်းဘဲအင်း၏ မြောက်ဘက် ဒန့်တောအရပ်မှာ စည်းခုံစေတီတော်သိမ်ကြီးနှင့်တကွ ကျောင်းဆောင်ကြီးတစ်ဆောင် ဆောက်လုပ်၍ လှူဒါန်းလေသည် ဟူသတတ်။

ယခုဆရာတော် အရှင်ဇနကာဘိဝံသမှာလည်း သာသနာပြုချင်ပါလျက် ပင်ပန်းကြီးစွာလည်း ပြုနေပါလျက် မည်မည်ရရ ဘယ်ကမှ အကူအညီမရ၊ အထက်ပါ အင်းဝဆရာတော်လို ပြုရမည်ကဲ့သို့ ဖြစ်နေ၏၊ သို့သော် ထိုကဲ့သို့ကား မပြုဖြစ်ပါ၊ ထို ဇာတ်လမ်းကလေးကို သတိရ၍ ပြုံးပြီးနေမိခြင်းမျှ လောက်သာ ဖြစ်ပါလိမ့်မည်။

စင်စစ်ကား ဆရာ, ဒကာ နှစ်ဖြာပူးပေါင်းနိုင်မှသာ ပြုပြင်ပြောင်းလဲလိုသော သာသနာပြုကိစ္စကြီး အောင်မြင်နိုင်ဖွယ်ရှိသည်။

## ကျမ်းပြုစံကျောင်းကလေး

### ဆရာသမားတို့အမွေအနှစ်

ဆရာတော်အရှင်ဇနကာဘိဝံသမှာ စာပေဘက်နှင့် ပတ်သက်၍ ကံကောင်းပြီး အောင်မြင်မှုရသလောက် နေထိုင်ဖို့ရာ အဆောက်အအုံ, ဝတ်ဖို့ အဝတ် သင်္ကန်း, စားသောက်ဖို့ အစာအာဟာရဘက်တို့၌ ကုသိုလ်ကံ နည်းပါးလှပါသည်၊ စာပေနှင့် ပတ်သက်၍ ကလေးသူငယ်ဘဝမှစပြီး ပင်ကျောင်း

ဆရာတော်ကြီး, မြောင်းမြဆရာတော်လောင်း, ပခုက္ကူဆရာတော်များ, အဘယာရာမဆရာတော်ဘုရားတို့အထိ စောင့်ရှောက်မည့်သူ, ကူညီဖေးမမည့် ဆရာသမားများ တစ်ပါးပြီးတစ်ပါး ပေါ်ပေါက်ခဲ့၍ ကံကောင်းလှပါသည်။

စားသောက်ရေးဘက်တွင်ကား ထိုသို့မဟုတ်တော့ပါချေ၊ ပခုက္ကူစာသင်သားဘဝ၌ အလွန်ဆင်းရဲခဲ့ရခြင်း, အဘယာရာမ၌လည်း မျှတရုံသာရှိခြင်း, အမရပူရတွင်လည်း အစဉ်ထာဝရလို မျှတရုံမှတစ်ပါး မောက်လျှံပြည့်ဖြိုးမနေခြင်း (တစ်ခါတစ်ရံများများရှိပြန်လျှင်လည်း တစ်ပါးတည်းမဘုဉ်းပေးဘဲ သံဃာများနှင့် ခွဲဝေဘုဉ်းပေးခြင်း)တို့ဖြင့် သီတင်းသုံးတော်မူခဲ့သည်၊ အဝတ်ဘက်တွင်လည်း သိပ်ပြီးပေါ်များလှသည် မဟုတ်ပေ။

ထို့အတူ နေထိုင်ဖို့ရာ အဆောက်အအုံအတွက်လည်း ခပ်ခက်ခက်ပင် ဖြစ်၏၊ မူလကဆိုလျှင် (ယခုအမြဲသီတင်းသုံးသွားသောကျောင်းကလေး၏နေရာ၌) ဆယ်ပေပတ်လည်ခန့်မျှရှိသော ခြေတံရှည်နှစ်ထပ်ကျောင်းကလေးတစ်လုံး ယိုင်ထိုးထိုး တည်ရှိခဲ့၏။

ရှေးဆရာတော်ကြီးများ သီတင်းသုံးသွားသည့် ကျောင်းကလေးပင်ဖြစ်သည်၊ အထက်ထပ်တွင် အိပ်ရာ ခုတင်နှင့် စာအုပ်ဗီရိုခပ်ရွယ်ရွယ်နှစ်လုံး, စားပွဲသေးသေးတစ်ခုမျှသာ ဆန့်၏၊ အိပ်ဖို့သွားလျှင် စောင်း၍ဝင်ရသည်၊ အောက်ထပ်တွင်မူ ကျောင်း၏ ခါးဆစ်ပတ်လည်မှ လေးဘက်တယ်လယ် အမိုးချ၍ မနိမ့်မမြင့်ကြမ်းခင်းအဆင့်ကလေးဖြင့် တည်ရှိသည်၊ အာဂန္တုဧည့်သည်လာလျှင် အရှင်ဇနကာဘိဝံသသည် ယင်းအောက်ထပ်တွင်ဧည့်ခံ၏၊ စာချစရာရှိရလျှင်လည်း လေးငါးပါးမျှသာဆိုလျှင် ယင်းအောက်ထပ်တွင်ပင် ချပို့ပေး၏၊ ကျမ်းစာရေးသားရာ၌ကား အပေါ်ထပ်သို့တက်၍ သွားတော့သည်။

## ကျောင်းကလေးတစ်လုံးစွန့်ပါ

စစ်ကိုင်းတောင်ရိုး အရှေ့ဂန္ဓာရုံချောင်၌ ပထမမဟာဂန္ဓာရုံဆရာတော် ပျံလွန်တော်မူသောအခါ ချမ်းအေးချောင်ဆရာတော်က ဒုတိယဂန္ဓာရုံဆရာတော်အဖြစ် ဆက်လက် စောင့်ရှောက်ထိန်းသိမ်းတော်မူရ၏၊ ယင်းဆရာတော်နှစ်ပါးလုံးကပင် အရှင်ဇနကာဘိဝံသကို မြတ်နိုး၍ တန်ဖိုးထားတော်မူကြကုန်၏၊ ကျောင်းသားအရွယ် ငယ်ငယ်ကပင် စောင့်ရှောက်တော်မူလာခဲ့ကြ၍ ရဟန်းခံရာ၌ပင် စနစ်တကျဖြစ်အောင် ကြောင့်ကြစိုက်တော်မူခဲ့ကြလေသည်။

ယခုအခါတွင် အရှင်ဇနကာဘိဝံသမှာ ရဟန်းသာမဏေရွယ် တပည့်ငယ်များဖြင့် စာသင်တိုက်ကလေးပင် ဖြစ်၍ နေပြီကိုလည်း သိတော်မူကြ၏၊ ဤ ထူခါစ ထောင်ခါစ ဖြစ်၍ အစစအရာရာ လိုအပ်မည်ကိုလည်း မြင်တော်မူသဖြင့် တစ်နေ့တွင် အနီးသို့ရောက်လာသော အရှင်ဇနကာဘိဝံသအား ဒုတိယမဟာဂန္ဓာရုံဆရာတော်ဘုရားကြီးက“မောင်ဇနက...ဘာများ အလိုရှိသလဲ, လိုတာရှိရင် ပြော, အားမနာနှင့်”ဟူ၍ မိန့်တော်မူ၏၊ ဆရာတော်ဘုရားကြီးမှာ ထိုအချိန်က သက်တော် ၉၀ နီးပါးမျှ ရှိနေပြီဖြစ်၍ စက္ခုတော် နှစ်ကွင်း အလင်းရောင်ပင်ကောင်းကောင်း မရတော့ချေ၊ စိုးစိုးစမ်းစမ်းပင် မိန့်တော်မူနေရချေပြီ၊ ထိုအခါ...

“တခြားဟာတွေတော့ ဖြစ်နိုင်ပါသေးတယ်ဘုရား, အခု တပည့်တော်မှာ နေစရာ အဆောက်အအုံ မရှိပါ၊ ကျောင်းကလေးတစ်လုံးလောက်များ ရရင်တော့ လိုချင်ပါတယ်ဘုရား”

“အေး အေး ဒီချောင်ထဲမှာ ကြိုက်တဲ့ကျောင်းကို ဖျက်ယူသွား”

ထိုသို့ ခွင့်ပေးချက်အရ စစ်ကိုင်းတောင်ရိုး မဟာဂန္ဓာရုံချောင် တောင်စောင်းမှ နှစ်ခန်းပတ်လည်သုံးပင်ကျောင်းကလေးတစ်လုံးကို ဖျက်၍ မိုးအခါ ရေကြီးချိန်တွင် လှေကြီးနှစ်စင်းဖြင့် သယ်လာခဲ့ကြသည်၊ စစ်ကိုင်းချောင် တောင်စောင်းတွင်ကား နေမည့်သူ နည်းပါးသလောက် ထိုကဲ့သို့သော ကမ္မဋ္ဌာန်းကျောင်းကလေးများက ပေါများလှသည်၊ စစ်ကိုင်းမှ ဧရာဝတီမြစ်ကို ဖြတ်၍ တောင်သမန်အင်းထဲသို့ ဝင်လာကာ အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်၏ အရှေ့ဘက် ကမ်းဘေးတွင် လှေကြီးနှစ်တွဲ ရောက်လာခဲ့ကြ၏။

## ကျမ်းတွေများစွာ ပေါက်ဖွားရာ

ထိုအခါတွင်မှ လက်ရှိ အဟောင်းကျောင်းကလေးကိုဖျက်၍ စစ်ကိုင်းမှရလာခဲ့သော အဟောင်းကျောင်းကလေးနှင့်ပေါင်းကာ ဆက်တန်လျှင်ဆက်, ပူးတန်လျှင်ပူး, ကပ်တန်လျှင်ကပ်, ဖြတ်တန်လျှင်ဖြတ်၍ ဆောက်လုပ်သဖြင့် ယခုတွေ့မြင်နေရသော တစ်ထပ် စံကျောင်းအနိမ့်ကလေးတစ်ခု ဖြစ်လာရတော့သည်၊ သုံးပင်နှစ်ခန်း ပတ်လည်ကိုယ်ထည်ပင်ဖြစ်၏၊ ပျဉ်ကို ထောင်၍ ကာထားသည်၊ ပျဉ်ကိုပင် မိုး၍ ပျဉ်ကိုပင် ခင်းထား၏၊ ယင်းကိုယ်ထည်ကိုမှ တစ်ဖန်ထပ်၍ လေးဖက်ပတ်လည် ခြောက်ပေစကြံ ပတ်ထားပြန်၏၊ ရင်စို့ခန့်မျှ မြင့်၏။

နှစ်ခန်းပတ်လည် ကိုယ်ထည်အတွင်း၌ကား အနောက်တောင်ထောင့်အခန်းဝယ် ကျောင်းတိုက်အတွင်းကစေတီရှိရာ တောင်ဘက်ကို ဦးခေါင်းပြု၍ ဆရာတော် အိပ်ခုတင်ခင်းထားသည်၊ အရှေ့တောင်ထောင့် အခန်းတောင်ဘက် ခေါင်းရင်းပိုင်းတွင် ပိဋကတ်စာအုပ်ဗီရိုကြီး နှစ်လုံးက မတ်မတ်ရပ်လျက် ရှိကြ၏၊ ဗီရိုကြီးများ၏ ခြေရင်းဘက်မှာမူ အနည်းငယ် ခွာ၍ မတ်ရပ်ခြေတံရှည် စာရေးစားပွဲကြီး၏ နေရာကို ပေးထားသည်၊ ယင်းစာပွဲကြီးဘေးတွင် ဆရာတော် အရှင်ဇနကာဘိဝံသက အမြဲတမ်း မတ်မတ်ရပ်လျက် စာရေးခြင်းအမှုဖြင့် ကျမ်းပြုတော်မူလေသည်။

ဤ ကျမ်းပြုစံကျောင်းကလေးပေါ်တွင် အမျိုးဘာသာ သာသနာတော်အတွက် ကျမ်းပေါင်းမြောက်မြားစွာ ပြုတော်မူခဲ့၏၊ ဤကျမ်းပြုစံကျောင်းကလေးသည် မဟာဂန္ဓာရုံကျောင်းတိုက်ဝင်းကြီး၏ အရှေ့မြောက်ထောင့်မှာ အတွင်းဘက်ကကပ်လျက် တောင်သမန်အင်းကြီး၏ ကမ်းနဖူးပေါ်တွင် တည်ရှိ၏၊ ထို့ကြောင့် မတ်မတ်ရပ်လျက် စာရေးရင်း ပြာလဲ့လဲ့ တောင်သမန်အင်းရေပြင်ကြီးကို တစ်မျှော်တစ်ခေါ် ကသိုဏ်းရှုနိုင်သည်၊ ရေပေါ်မှ ဖြတ်ကျော်လာသော လေပြည်လေညင်းတို့ကိုလည်း တဝကြီး ရှူရှိုက်နိုင်၏။

အနည်းငယ် မျက်လုံးပင့်၍ မြင့်လိုက်ပါမူ ထုံးဖြူဖြူ အဖွေးသားဖြင့် တောင်သမန်ကျောက်တော်ကြီးဘုရားကိုလည်း ဖူးမြင်နိုင်သည်၊ ထို့ထက် ကျော်၍ မော်၍ မျှော်လိုက်ပါလျှင်ကား ဆိုင်းဆို့ မှိုင်းညို့လျက် အဖုအထစ် အဆစ်အပိုင်းတို့ဖြင့် သဘာဝအတိုင်း တည်ရှိနေသော အရှေ့ဘက် ရှမ်းပြည်တောင်တန်းကြီးတို့ကိုပါ မြင်ကွင်းကျယ် ရှုမြင်နိုင်ရပါ၏၊ စာရေးရာ၌ ချမ်းမြေ့ကြည်နူးဖွယ်ပင် ဖြစ်တော့သည်။



ယခင်



ယခု

ဆရာတော်ပျံလွန်တော်မူသည်အထိ သီတင်းသုံးခဲ့သော ချမ်းအေးဆရာတော်စွန့်ခဲ့သည့် စံကျောင်းကလေး

ယု၉

## ဆရာသမားတို့ကို အမြဲဦးညွတ်

နောင်သောအခါတွင် ဤကျောင်းကလေးကို ဖျက်၍ ထို့ထက်ကောင်းမွန်သော စံကျောင်းသစ် ကို ဆောက်လုပ်ပေးမည့် ဒကာများပေါ် ပေါက်ပါ၏၊ သို့သော် ဆရာတော်က လက်မခံပေ၊ ဆရာတော် ဘုရားကြီးတို့ထံမှ ချီးမြှင့်၍ ရသော အမွေအနှစ် သစ်သားကလေးများ ပျောက်ပျက်သွားမည်စိုးသော ကြောင့်ဟု အကြောင်းပြကာ မွမ်းမံရုံမျှသာ ခွင့်ပြု တော်မူသည်၊ ယခုအခါ မည်သူ့အားမျှ နေခွင့်မပေး ဘဲ ပြတိုက်ကလေးအဖြစ် ထိန်းသိမ်းထား၏။

ဤသို့လျှင် အရှင်ဇနကာဘိဝံသ၏ အလေ့မှာ ဆရာ့ဆရာသမားကြီးတို့ကချီးမြှင့်အပ်သောပစ္စည်းကို တလေးတစား မြတ်နိုးတတ်ခြင်း, ဆရာတော်ဘုရား ကြီးများ သီတင်းသုံးတော်မူခဲ့ဖူးသော ခုတင်, ညောင်စောင်းကိုပင် မည်သူမျှမသုံးစေရဘဲ အလေး အမြတ်ထားခြင်း, ဆရာတော်ဘုရာကြီးများ မိန့်ကြား အပ်သောဩဝါဒစကားကို တရိုတသေ ခံယူလိုက်နာ ခြင်း စသည့်အလေ့များ ရှိနေတတ်ပါသည်၊ ကလေး အရွယ် ငယ်စဉ်ကပင် အရာရာ၌ မိဘနှင့်ဆရာ သမားတို့အား လေးစားတတ်သော မင်္ဂလာတရား ရှိလာခဲ့သည်ဖြစ်ရာ ယခုကဲ့သို့သော အသိဉာဏ်များ မြင့်မားကျယ်ဝန်းလာသောအခါတွင်ကား အဘယ် မှာလျှင် မလေးစား မလိုက်နာဘဲ ရှိတော့မည်နည်း။

## ကျောင်းတိုက်မြေ နောက်မှကျယ်ဝန်းလာ
### ကျောင်းဝင်းမြေ မူလပရိဂုဏ်

အမရပူရ မဟာဂန္ဓာရုံကျောင်းဝင်းမြေသည် အစပထမက များစွာမကျယ်ဝန်းသေးပါ၊ တောင် မြောက် ရှည်ရှည်လျားလျား ဖြစ်၏၊ အားလုံးမှ မြောက်ဘက် ဇရပ်ဝင်းပါ ပေါင်းမှ လေးဧကခွဲ လောက်မျှသာ ရှိပေသည်၊ ပတ်ပတ်လည် အုတ် တံတိုင်း ခပ်နိမ့်နိမ့်မျှ ခတ်ထား၏၊ အလယ်လောက် တွင် ထုံးသက်န်းကပ်ထားသော စေတီကြီးတစ်ဆူ ရှိသည်၊ သစ်ပင်ကြီး သစ်ပင်ငယ်တို့ဖြင့် ဝန်းရံ အုံ့ဆိုင်းနေကြ၏၊ နေရာဌာနမှာ ချောင်ကျသဖြင့် လူသူအသွားအလာနည်းပြီး အမြဲတမ်း တိတ်ဆိတ် လျက် ရှိသည်၊ အဆောက်အအုံလည်း များစွာမရှိ၊ မြေအနေအထားမှာလည်း အချို့ကုန်းကမူ, အချို့ ချိုင့်ဝှမ်း ဖြစ်ကြသည်။

ကမ္ဘာ့ဌာန်းဆရာတော်ကြီးများ သီတင်းသုံးတော် မူကြသဖြင့် သုသာန်ဓုတင်ရနိုင်ရန် နီးစပ်ရာပုဂ္ဂိုလ် တို့၏ အရိုးဂူများကို ကျောင်းတိုက် အာရာမ်တွင်းသို့ သွင်းနှံထားကြ၏။

ထို့ကြောင့် ဆရာတော်က တစ်ခုသောနံနက်ခင်း ဩဝါဒတွင် အောက်ပါအတိုင်း မိန့်မြွက်ခြင်း ဖြစ်ပေ သည်။

"ဘုန်းကြီး ဒီကို ရောက်လာစက အခု တိုက်သစ် ကြီးနေရာမှာ ဇရပ်အိုကြီး နှစ်လုံး, ဆွမ်းစားကျောင်း ဟောင်း နေရာနားမှာ အရိုးအိုးဂူပြာသာဒ်က နှစ်လုံး, ဒီကျောင်းတိုက် ဒကာကြီးနဲ့ ကျောင်းအမကြီးများရဲ့ ဂူတဲ့၊ အရှေ့သိမ်ရဲ့ မြောက်ဘက်ဖျားနားမှာ ဒီ ကျောင်းတိုက် မူလဆရာတော်ကြီးရဲ့ အရိုးအိုးဂူ တစ်လုံး, တောင်တံတိုင်းနားမှာလဲ အရိုးအိုးဂူတစ်လုံး ရှိတယ်။

နောက်တော့ ဇရပ်အိုနှစ်လုံးကို ဖျက်, တစ်လုံး တည်း ပေါင်းပြီး အောက်က သမံတလင်းခုံနဲ့ သစ်သားကျောင်းပဲ ဆောက်တယ်၊ ပြီးတော့ သံဃာ ထားတယ်၊ အခု တိုက်သစ်ကြီးနေရာမှာပဲ (အရှေ့ အုတ်တံတိုင်းနားက တိုက်ကြီးကို ဆိုလိုသည်။) အဲဒီ ဇရပ်အိုက ပိုတဲ့ တိုင်တချို့နဲ့ တံခါးရွက်တချို့ဟာ အခု တောင်တိုက်မှာ (စေတီ၏အရှေ့ တောင်ဘက် က တိုက်မှာ) ပြောင်းရွှေ့ အသုံးပြုထားတယ်။

အရိုးအိုးဂူတွေကိုတော့ ဘုန်းကြီးလက်ထက်မှာ အကုန်ဖျက်, စုပေါင်းပြီး တောင်နားက တံတိုင်းရဲ့ တောင်ဘက်မှာ ကပ်ပြီး အရိုးအိုးစေတီကလေး တည်ထားခဲ့တယ်၊ အဲလိုနဲ့ အကြာကြီး နေပြီးမှ တစ်ဖန် အဲဒါကို ဖျက်ပြီး အရှေ့ဘက်အင်းထဲမှာ သဘော်ပုံပေါ်တွင် အရိုးအိုးစေတီကလေး ပြောင်းရွှေ့တည်ခဲ့ပြန်တာ"။

(၁၃၃၀ပြည့် ပြာသိုလဆန်း ၄ ရက်ညဩဝါဒမှ)



ရှေးဦးမူလ ကျောင်းမုခ်ဝ

## မြေနေရာသစ် ကျယ်ဝန်းလာ

ဤသို့လျှင် ဆရာတော်က ဤ မဟာဂန္ဓာရုံ ကျောင်းတိုက်သို့ သူ စတင်ရောက်ခဲ့စဉ် (ဒုတိယ ကမ္ဘာစစ်ဦး) အချိန်က အနေအထားကို ပြန်လည် မိန့်ကြားတော်မူခြင်း ဖြစ်၏၊ မှန်ပါသည်၊... မူလ ကျောင်းဝင်းမြေသည် မကျယ်ဝန်းသည့်ပြင် ကျောင်း ဝင်းမြေနှင့် အမရပူရမြို့ကြားတွင်လည်း ချုံနွယ် ပိတ်ပေါင်း သစ်ပင်ကြီးငယ် ဥယျာဉ် ခြံမြေတို့ဖြင့် ခြားလျက်ရှိပေသည်၊ ထို့နောက် ကြာမြင့်မှသာ မြေ နေရာ ကျယ်ဝန်းလာခြင်း ဖြစ်၏၊ အတိအကျဆိုရလျှင် ၁၃၁၂ ခု နတ်တော်လဆုတ် ၃ ရက် (၂၇-၁၂-၅၀)နေ့ကျမှ ကပ္ပိယကာရကဒကာကြီးကျော်, ဒကာမကြီး ဒေါ်သိန်းတင်တို့က စ၍ လှူကြသည်၊ အနောက်ဘက်ကပ်လျက်ရှိသော မြေ ၁.၂၀ ဧကကို ဝယ်ယူ၍ မဟာဂန္ဓာရုံကျောင်းတိုက်၏ ဥပစာမြေ အဖြစ် ဦးစွာ လှူကြသည်။

ထို့နောက် ၁၃၁၄ ခုနှစ်တွင် ထိုမြေများနှင့်ကပ်လျက်ရှိသော မြေရိုင်း ၈. ၃၂ ဧကတို့ကို မန္တလေးမြို့ နန္ဒဝန်သစ်စက်ပိုင် ဦးဘတင်, ဒေါ်မိမိလေးတို့က ဝယ်ယူ၍ လှူဒါန်းကြပြန်သည်၊ ထို့နောက်တစ်ဖန် စာအုပ်တာဝန်ခံ ဒေါ်စိန်ရှင်, အဘွား သီလရှင် ဒေါ်တုန, သီလရှင် ဒေါ်ဝါယမီနှင့် ဒါယိကာမကြီး ဒေါ်ရီတို့က စုပေါင်း၍ ၂. ၁၃ ဧကကို ဝယ်၍ လှူဒန်းကြပြန်၏၊ ထို့နောက် အမရပူရမှ ဆရာထွန်း ဒေါ်လှကြည်တို့က ၀. ၄၁ ဧကကို လှူကြပြန်သည်၊

ဤနည်းဖြင့် အသစ်တိုးလာသော မြေအကျယ် အဝန်း ၁၂.၀၇ ဧက ဖြစ်၍လာတော့သည်။

သို့ဖြစ်၍ လက်ရှိမြေများနှင့်ပေါင်းသော် ၁၆ ဧကခွဲကျော်ကျော် ဖြစ်၍လာတော့၏၊ နောက်ပိုင်း တွင်ကား အရှေ့ဘက် အင်းစောင်းနယ်နိမိတ်တို့ကို ပါ ဝယ်ယူ၍ လှူဒါန်းလာကြသဖြင့် ယခုအခါ ၂၅ ဧကနီးမျှ ဖြစ်၍လာတော့သည်၊ ဤမျှသော မြေ အပြင်ပေါ်ဝယ် ဆရာတော်တို့က နေသားတကျ သူ့ နေရာနှင့်သူ အဆောက်အအုံတို့ကို ဆောက်လုပ် စေပြီးလျှင် သက်မဲ့ရုပ်သွင်တို့ကို ပြင်ဆင်တော်မူ၏၊ သာယာအောင် ဖန်တီးတော်မူ၏၊ ထို့နောက်တွင်မှ "သက်မဲ့ကို ပြုပြင်၍ ရနိုင်သလို သက်ရှိကိုလည်း ပြုပြင်၍ရရမည်"ဟူသော အားမာန်ဖြင့် သာသနာ့ အညွန့်အညှောက်တို့ကို စုဆောင်းကာ သာသနာ့ ပျိုးပင်များကို ထူထောင်ပြီးလျှင် စိမ်းစိုလာမည့် သာသနာ့ဥယျာဉ်ကြီးကို မျှော်လင့်နေတော့သည်။

# သာသနာတော်ကို ပြုပြင်ဖို့ ဘယ်လိုမြင်ထားပါသလဲ

## လူနတ်ပြဟ္မာတို့ဖို့ သာသနာပေါ်လာ



(ယခု) မဟာနာယကဆရာတော်
ဘဒ္ဒန္တမဟိန္ဒ (အဂ္ဂမဟာပဏ္ဍိတ)

၁၃၁၉ ခု ပြာသိုလဆန်း ၁၂ ရက် (၁-၁-၅၈) နေ့ကဖြစ်၏၊ ဆရာတော် အရှင်ဇနကာဘိဝံသသည် ရန်ကုန်မြို့ ကမ္ဘာအေးဘုရားလမ်း မြောက်ဥက္ကလာ တံတားကလေး လမ်းဆုံ၌ရှိသော မဟာဂန္ဓာရုံ ကျောင်းတိုက်သို့ ခေတ္တ ရောက်နေခိုက် ဖြစ်၏၊ ဤ ကျောင်းတိုက်ပိုင်ရှင် ဆရာတော် ဦးပညာသာရက သိမ်သမုတ်ရန်ပင့်၍ ကြွလာခြင်းဖြစ်သည်။

သာသနာရေး ဘာသာရေးစိတ်ဝင်စားကြသော ဒါယကာအချို့လည်း ဆရာတော်လာသည်ဆို၍ ရောက်လာကြတော့၏၊ မြတ်စွာဘုရား၏ သာသနာ တော်အတွက် တက်တက်ကြွကြွ ကြောင့်ကြောင့် ကြကြ ဆောင်ရွက်နေကြသော ဆရာတော်တစ်ပါး ဟု နားလည်ကြသဖြင့် သာသနာတော်၏ အရေးကို မေးမြန်းလိုသောကြောင့် ဝိုင်းအုံရောက်လာကြခြင်း ဖြစ်သည်။

ရောက်လာသမျှကို ဦးထိန်ဝင်းက နေရာချ ပေးရ၏၊ ထိုပရိသတ်တွင် ခရစ်ယာန်ဘာသာဝင်မှ

---

မှတ်ချက်။ ။ကျောင်းတိုက်အတွင်း၌ များစွာသော အဆောက်အအုံတို့ကို ဆောက်လုပ်တိုင်း ဆရာတော်အား ကူညီပံ့ပိုးရသော ဘုန်းကြီးတစ်ပါးရှိသေး၏၊ ယင်းကား ဦးမဟိန္ဒဖြစ်သည်၊ ဆရာတော်အကြိုက် ဝိသုကြုံသဖွယ် စီမံပေးရ၏၊ ဦးမဟိန္ဒသည် ပခုက္ကူခရိုင် ဂန့်ဂေါမြို့နယ် ကင်းပန်းရွာသားဖြစ်၍ အမရပူရ မဟာဂန္ဓာရုံကျောင်း တိုက်သို့ ၁၃၁၄ ခု နှစ်သစ်ဦးတွင် ရောက်လာခဲ့သည်၊ ကျောင်းတိုက်တွင် ကျေးဇူးများခဲ့၏၊ ယခုအခါ ဦးစီး မဟာနာယကလေးပါးတွင် တစ်ပါးအပါအဝင်ဖြစ်ကာ တာဝန်များကို ဆက်လက်ထမ်းဆောင်လျက်ရှိသည်။

ဗုဒ္ဓဘာသာဝင်ဖြစ်လာသော ဦးကျန်စုနှင့်ဒေါက်တာရန်ရှင်းတို့က အများဆုံး မေးမြန်းကြသည်၊ မေးတိုင်းလည်း ဆရာတော်က ဖြေရ၏၊ ထိုမေးခွန်းများစွာတွင်...“သာသနာတော်ကို ပြုပြင်ဖို့ ဆရာတော်ဘယ်လို မြင်ထားပါသလဲဘုရား”

ဤမေးခွန်းကို ဆရာတော်က အဖြေချင်ဆုံး ဖြစ်၏၊ အဖြေပေးရင်း စပ်နွယ်ရာတို့ကိုလည်း ပြောပြသွားချင်သည်၊ ရှေးတုန်းကမေးသူမရှိဘဲ ဆရာတော်တစ်ပါးတည်း ဟစ်အော် နှိုးဆော် ပြောပြနေခဲ့ရ၏၊ ယခု မေးသူများရှိလာသဖြင့် သာ၍ ဖြေချင်သည်။

“ဒီမေးခွန်းကို မဖြေမီ ဘုန်းကြီးက မြတ်စွာဘုရားရဲ့ သာသနာတော် တည်ထားရခြင်းရည်ရွယ်ချက်ကို နည်းနည်း ပြောပြချင်သေးတယ်။

ဘုန်းကြီးတို့ မြတ်စွာဘုရားရဲ့ သာသနာတော်ဟာ လူနတ်ဗြဟ္မာ သတ္တဝါတွေအတွက် ပေါ်လာတာပါ၊ လူနတ်ဗြဟ္မာ သတ္တဝါတွေ ချမ်းသာစေချင်လို့ ဒီသာသနာတော်ကို မြတ်စွာဘုရား တည်ထောင်ရတာပါ။”

## ဒါယကာ ဒါယိကာမတွေ တာဝန်ကျေခဲ့ကြ

“ဒီလို သာသနာတော်တစ်ရပ် တည်ထောင်ဖို့ရာဆိုတာကလဲ လွယ်လွယ်ကလေးနှင့် ဖြစ်တာတော့မဟုတ်ပါဘူး၊ ဘုရားကိုယ်တော်မြတ်မှာ လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်းကာလပတ်လုံးတောင် ပါရမီတွေဖြည့်ခဲ့ရ, အနစ်နာတွေ ခံခဲ့ရပါတယ်၊ သက်သောင့်သက်သာ မဟုတ်ပါဘူး၊ ဒါတွေဟာ အများကောင်းကျိုးရဖို့အတွက် အနစ်နာခံခဲ့ရတာပါ၊ အဲဒီလောက်အနစ်နာတွေခံပြီး တန်ဖိုးကြီးစွာနှင့် အရင်းအနှီးတွေများစွာပေးပြီးမှ ဖြစ်ပေါ်လာရတဲ့ သာသနာ, ဒီသာသနာကို အမှီပြုပြီးတော့ ရှေ့ပိုင်းတွေတုန်းကသူတော်ကောင်းတွေဟာ ချမ်းသာခဲ့ကြရတယ်၊ တိုးတက်ခဲ့ကြရတယ်၊ အကျိုးအမြတ်တွေ ထွက်ခဲ့ကြရတယ်၊ ဒါကြောင့်လည်း ကျေးဇူးတင်ခဲ့ကြတယ်။

သို့ပါလျက် ဘုန်းကြီးတို့လက်ထက် ဒကာကြီးတို့လက်ထက်ကျကာမှ ဒီသာသနာဟာ အကျိုးမရှိဘူးလိုလို အစွပ်စွဲခံရ, အပိုလိုလို အထင်ခံရတာတွေဟာဘာလဲ? ဘာအကြောင်းကြောင့်လဲ? ဘယ်လိုဖြစ်တာလဲ? ဒါ စိစစ်ဖို့ ကောင်းတယ်၊ သာသနာကိုစိတ်ဝင်စားကြတဲ့ ဘုန်းကြီးတို့တစ်တွေက စိစစ်ကြရမယ်။

၁။ ဘုရားအဆုံးအမ သာသနာတော်ကပဲ ခေတ်မမီတော့ဘူးလား။

၂။ ဒါမှမဟုတ် သာသနာ့ဝန်ထမ်းသားတွေကပဲ အဆင့်မီအောင် ကျင့်သုံးခြင်းမရှိကြ, အလုပ်မလုပ်ကြတော့လို့လား။

၃။ ဒါမှမဟုတ် အခြေခံ ဒါယကာ ဒါယိကာမတွေကပဲ မထောက်ပံ့ချင်ကြတော့လို့လား။

ကွဲကွဲ ပြားပြားဖြစ်အောင် စိစစ်ဖို့ လိုလာတယ်၊ ဒါစိစစ်ကြရမှာပဲ။

ကဲ ဒီသုံးချက်ကိုပဲ **စိစစ်ကြစို့**။

ပထမဦးစွာ ဒကာ ဒကာမတွေက ထောက်ပံ့/မထောက်ပံ့, ဒါကို ကြည့်ကြစမ်းပါ၊ ဒကာကြီးတို့မျက်မြင်ပဲ, သာသနာနှင့် ပတ်သက်လာလို့ရှိရင် မြန်မာပြည်သားတွေ သဒ္ဓါတရား ဘယ်လောက်ကောင်းကြတယ်ဆိုတာ မြန်မာပြည် တစ်ခုလုံးကျောင်းကန်ဘုရား စေတီပုထိုးတို့ဖြင့် ဖုံးနေတာကိုရယ်, သာသနာ့ဝန်ထမ်း ရဟန်း သာမဏေဦးရေများစွာတို့ရဲ့ သက်န်းရောင်တွေ တပြောင်ပြောင်တလျှမ်းလျှမ်းနှင့် တောက်နေတာကိုရယ် ထောက်ဆလို့ရှိရင် သိနိုင်ပါတယ်။

ပုဂံခေတ်က စပြီး ဒီကနေ့ထိအောင် ထောက်ပံ့မှုတွေဟာ မလျော့သေးပါဘူး၊ ထောက်ပံ့မြဲပါပဲ၊ ဒီလိုဆိုရင် ဒကာ ဒကာမတွေဘက်က မထောက်ပံ့ချင်ဘူးရယ်လို့ မဆိုနိုင်ပါဘူး၊ ထောက်ပံ့နေကြပါတယ်၊ တာဝန်ကျေကြပါတယ်။

## အဆုံးအမသာသနာ ခေတ်မီလျက်ပါပဲ

တစ်ခါ ဘုရားအဆုံးအမ သာသနာတော်က ခေတ်မမီတော့ဘူးလား။ ဒါကို စိစစ်ကြစမ်းပါဦး၊ "ဘုရားအဆုံးအမ သာသနာဆိုတာ သီလ သမာဓိ ပညာပဲ၊ အဲဒီ သုံးမျိုးထဲက အခြေခံဖြစ်တဲ့ သီလ ဆိုတာ ကာယကံ, ဝစီကံပဲ၊ ကာယကံ ဝစီကံကို စောင့်စည်းရတာ သီလပဲ၊ အဲဒီထဲကမှ တစ်ဖန် အနိမ့်ဆုံး ဖြစ်တဲ့ ကာယကံကိုပဲ ပြောကြဦးစို့၊ ကာယကံ သုံးပါးကို မကောင်းမှု မဖြစ်စေဘဲ ကောင်းတဲ့ဘက်ကို လှည့်လိုက်စမ်းပါ၊ ကောင်း ကောင်း လိုက်နာကျင့်သုံးလိုက်စမ်းပါ။ ကောင်းတဲ့ ကာယကံ, ကောင်းတဲ့ ကာယိန္ဒြေ ဖြစ်မလာဘူး လားလို့။

ဥပမာ...သာမဏေကလေးတစ်ပါး ဘုရား အဆုံးအမ(သေခိယသိက္ခာပုဒ်)နှင့်အညီ သင်းပိုင်ကို ပီပီသသနှင့် အစညီညီဝတ်ပြီး ကေသီကိုလဲ ကျကျ နန အစညီညီ ရုံလိုက်ပြီလားဆိုရင် အို-ကြည်ညို ဖွယ်ကြီးများ ဖြစ်သွားပြီး ဝတ်ရုံကြီးများ ခြုံလာသလို ဂုဏ်ကျက်သရေတွေ တက်လာပါတယ်။

နန်းရင်ပြင်က ဖြတ်သွားတဲ့ နိဂြောဓသာမဏေ ကလေးကို မြင်မြင်ချင်း သီရိဓမ္မာသောကမင်းကြီး ကြည်ညိုသွားတယ်ဆိုတာဟာ ဒီကာယိန္ဒြေ, ဒီဂုဏ် တွေကြောင့်ပဲပေါ့၊ အဲဒီအချိန်မှာ ဒီ သာမဏေ ကလေးရဲ့ အတွင်းသား သမာဓိ ပညာ တန်ဖိုးရှိတဲ့ အရာတွေကိုတောင် မသိရသေးပါဘူး၊ အပြင်ပန်းပဲ မြင်ရပါသေးတယ်။

သည်မျှလောက် လူကြီးလူကောင်းတို့ရဲ့ နှလုံး သားကို ရောက်အောင် ခိုက်အောင် စွဲစေနိုင်တဲ့ ဘုရားရဲ့ အဆုံးအမဟာ ခေတ်မမီဘူးလား, ဘုန်းကြီးက မေးချင်ပါတယ်။

တစ်ခါတုန်းက ဘုန်းကြီးတို့ရဲ့ဆရာ မြောင်းမြ ဆရာတော်, အဲဒီဆရာတော်ရဲ့ ကျေးဇူးရှင် ဆရာ တော်ကြီးတစ်ပါး မြင်းမူဆိပ်ကမ်းမှာ သင်္ဘောစောင့် နေတယ်၊ စီးရမည့်သင်္ဘောက လာဖို့ အချိန်လိုသေး တာနှင့် ခပ်လှမ်းလှမ်း သစ်ပင်အောက်မှာ သွားပြီး တစ်ပါးတည်း ဣန္ဒြေရရ သိက္ခာရှိရှိ တရားထိုင်သလို ထိုင်နေသတဲ့။

အဲဒီအချိန်မှာ အခြားသင်္ဘောတစ်စင်းပေါ်လာ ပြီး ဆရာတော်ကြီးအနီး ဆိပ်ကမ်းကို လာကပ်တယ်၊ ပြီးတော့ သင်္ဘောပေါ်က အင်္ဂလိပ်မျက်နှာဖြူအရာရှိ ကြီး တစ်ယောက် ဆင်းလာပြီး ဆရာတော်ကြီးအား ပိုက်ဆံတွေ လာပေးသတဲ့၊ ဒါပေမယ့် ဆရာတော် ကြီးက လက်မခံပါဘူး။

ဒီနေရာမှာ ဆရာတော်ကြီးရဲ့ ကာယိန္ဒြေ သိက္ခာ တွေဟာ မျက်နှာဖြူ လူမျိုးခြား ဘာသာခြားတစ်ဦးရဲ့ အသည်းနှလုံးကိုပင် ထိအောင် ခိုက်အောင် စွဲစေ စွမ်းဆောင်နိုင်ပါပေတယ်၊ ဒါတွေဟာ ဘုရားရဲ့ အဆုံးအမတွေ မဟုတ်ပါလား၊ လူကြီးလူကောင်း တို့ရဲ့ နှလုံးသားကို ခိုက်အောင် ကြိုက်စေတာဟာ ခေတ်မမီဘူးလားလို့ ဘုန်းကြီးက မေးချင်ပါတယ်၊ ဒါဟာ ဆရာတော်ကြီးရဲ့ အတွင်းသား သမာဓိ, ပညာတွေ ဘယ်လောက် ရှိတယ်ဆိုတာ သူ မသိ သေးပါဘူး။

## ဝန်ထမ်းသားတို့ လျှော့ရဲလာ

ဒီမျက်နှာဖြူအင်္ဂလိပ်လူမျိုးဟာ အလူတစ်ပါး ဘာသာခြားပါ၊ သီရိဓမ္မာသောက မင်းကြီးလဲ သာမဏေကလေးကို စတင်တွေ့စက ဗုဒ္ဓဘာသာ မဟုတ်သေးပါဘူး၊ အဲဒီလို ဘာသာတစ်ပါးတို့၏ နှလုံးသားကိုပင် ဆွဲငင် ယူကျုံးနိုင်တဲ့ ဗုဒ္ဓအဆုံးအမ ဟာ ခေတ်မမီဘူးလားလို့ ဘုန်းကြီးက မေးချင်ပါ တယ်။

ဒါဟာ အပြင်ပန်း ကာယိန္ဒြေပဲ ရှိသေးတယ်၊ ဝစီကံအတွက်လဲ အလားတူပဲ၊ သေခိယကျင့်ဝတ် တွေထဲမှာ စောင့်စည်းဖို့ နည်းလမ်းတွေ ဟောပြ ထားတာ များစွာ ရှိပါတယ်။

အခုလို ကာယကံ, ဝစီကံလောက်မျှ ပြည့်စုံနေ ရင်ပဲ ရောမ လူကြီး လူကောင်းတစ်ယောက် ခေါ်လောက်အောင် ဖြစ်နေပါပြီ၊ ဒါဟာ သမာဓိတို့ ပညာတို့ မပါသေးဘူး၊ အဲလောက်ပဲ ဗုဒ္ဓယဉ်ကျေးမှု က အဆင့်အတန်း မြင့်ပါတယ်။

ယခုခေတ် "ယဉ်ကျေးပါတယ်ဆိုတဲ့ တိုင်းကြီးပြည်သားတွေဟာ ဗုဒ္ဓယဉ်ကျေးမှုကို မကျော်လွန်နိုင်ပါဘူး၊ မပိုပါဘူး၊ ဒါကြောင့် ဗုဒ္ဓယဉ်ကျေးမှု၊ ဗုဒ္ဓအဆုံးအမ သာသနာဟာ ခေတ်မမီဘူးလို့ မဆိုနိုင်ပါဘူး။

ဒါဖြင့်ရင် တစ်ခုပဲ ကျန်တော့တယ်၊ သုံးခုရှိတဲ့ အနက် နှစ်ခုမဟုတ်ဘူးဆိုရင် ကျန်တစ်ခုပဲ ဖြစ်ရပါတော့မယ်၊ ဘုရားသာသနာတော်ကြီး တဖြည်းဖြည်း တရွေ့ရွေ့နှင့် ကျဆင်းလာတာ, အထင်သေး ခံလာရတာ, အပိုပါပဲလို့ အစွပ်စွဲခံလာရတာဟာ ဝန်ထမ်းသားတို့ရဲ့ လုံ့လ နည်းပါးမှုကြောင့်ပဲ၊ သာသနာ့ဝန်ထမ်း ရှင်ရဟန်းတို့ရဲ့ ကျင့်သုံးမှု လျော့ရဲလာမှုကြောင့်ပဲ၊ ဒီလိုပဲ အဖြေရှာ၍ ရပါတယ်။

ကဲ ... ယခုအခါ အကြောင်းရင်း ရှာလို့ရပြီ၊ အကြောင်းရင်း အနာကို သိပြီ၊ အနာကို သိမှဖြင့် ဆေးကုတတ်ရမှာပေါ့၊ လျော့ရဲလာတဲ့ အကျင့်သီလဘက်တွင် ပြုပြင်လိုက်ကြရုံပဲ၊ ယခုပြုပြင်လျှင် ယခုပင် ဖြစ်နိုင်ပါသေးတယ်၊ အချိန်မလွန်သေးပါဘူး။

## လူလတ်တန်းစားတွေ ဘုရားက အားကိုး

ဘုန်းကြီးစိတ်ထဲမှာတော့ စွဲနေတယ်၊ အားလုံး ညီညီညာညာနှင့် ဝိုင်းပြီး ချွတ်ယွင်းချက်တွေကို ပြုပြင်လိုက်ကြရင် ဧကန်ပင် ပြန်၍ တက်လာနိုင်ပါသေးတယ်လို့, ပုဂ္ဂိုလ်တွေ အနေအားဖြင့်လဲ ယခု မညံ့လှသေးပါဘူး၊ ရှေးတုန်းကတော့ ဒီသာသနာတော်ကြီးကို ထမ်းလာခဲ့ကြတဲ့ ပုဂ္ဂိုလ်တွေ, အရှင်ယသတို့လို သူဌေးသားတွေ, အရှင်မဟာကဿပတို့လို သူကြွယ်ကြီးတွေ, အရှင်သာရိပုတ္တရာ အရှင်မောဂ္ဂလ္လာန်တို့လို ချမ်းသာကြွယ်ဝကြတဲ့သူတွေ, အရှင်မဟာနာမ်တို့လို နန်းတော်ကြီးကို စွန့်ပစ်ခဲ့တဲ့ ဘုရင်ဧကရာဇ်တွေ, အရှင်အာနန္ဒာ, အရှင်နန္ဒတို့လို မင်းညီမင်းသားတွေ, အိမ်ရှေ့မင်းတွေ, ပညာတတ်ပဏ္ဍိတ်တွေ, မင်းမျိုးတွေ, ကုန်သည်မျိုးတွေအစုံပါပဲ။

ပုဂ္ဂိုလ်တွေက အဆင့်မြင့်သလို အကျင့်ဘက်ကလဲ ထိပ်တန်းပါပဲ၊ ဒါကြောင့်လဲ သာသနာတော်ကြီးကို မော်၍ ကြည့်ခဲ့ကြရတာပါပဲ။

ယခုအခါမှာတော့ ပုဂ္ဂိုလ်အနေနှင့် အဲဒီ အခြေ မဟုတ်ပေမယ့် ညံ့လဲ မညံ့လှသေးပါဘူး၊ "ခတ္တိယ, ဗြာဟ္မဏ, ဝေဿ, သုဒ္ဒ"လို့ အမျိုးလေးပါးရှိတဲ့ အနက်က ဝေဿမျိုးတို့လို လူလတ်တန်းစား အများစု ရှိကြပါသေးတယ်။

"ဣဓ ဘိက္ခဝေ တထာဂတော လောကေ ဥပ္ပဇ္ဇတိ" စသည်ဖြင့် သာသနာတော် ဖြစ်ပေါ်လာပုံကို ပြတဲ့နေရာမှာ မြတ်စွာဘုရားက ဝေဿပုဂ္ဂိုလ်တို့လို ကုန်သည် လူလတ်တန်းစား, အိမ်ပိုင်ယာပိုင်ရှိတဲ့ ဂဟပတိများကို အားကိုးတော်မူကြောင်း အမိန့်ရှိထားပါတယ်၊ ဘာ့ကြောင့်လဲဆိုတော့...

* ခတ္တိယတို့လို အုပ်ချုပ်တဲ့ လူတန်းစား မင်းမျိုးများက အမျိုးဂုဏ်နှင့် မာန်တက်နေတတ်ကြတယ်, ဗြာဟ္မဏတို့လို ပညာတတ်လူတန်းစားတွေက ပညာဂုဏ်နှင့် မာန်တက်နေတတ်ကြတယ်, သုဒ္ဒတို့လို အလွန်ဆင်းရဲတဲ့ အောက်တန်းစားများကျပြန်တော့လဲ ကိုယ့်လိပ်ပြာ ကိုယ်မလုံသလို ဖြစ်နေလို့ အဆင့်မမီပြန်ဘူး၊ လူတော မတိုးရဲဘူးဆိုပါတော့၊ ဝေဿပုဂ္ဂိုလ်တို့လို ကုန်သည် လူလတ်တန်းစား ဂဟပတိပုဂ္ဂိုလ်များကတော့ မိုးစို နေပူ မရှောင်, နေပူစပ်ခါးမှာ ချွေးတလုံးလုံးနှင့် ကျောပြင်မှာ ဆားပေါက်အောင် အလုပ် လုပ်နေကျဖြစ်လို့ အပင်ပန်းခံနိုင်တယ်တဲ့၊ မဂ်ဖိုလ်နိဗ္ဗာန်ကို မရ အရ အံကြိတ်ကြိုးစားနိုင်ကြတယ်တဲ့။

ကဲ... ဘယ်လောက် အားတက်စရာကောင်းသလဲ။

---

* အင်္ဂုတ္တရ၊ ဋ္ဌ၊ ၃-၃၃၄။

## သာသနာပြုပြင်ဖို့ မြင်ထားတဲ့လမ်း



မြောက်ဥက္ကလာအဝင် မဟာဂန္ဓာရုံကျောင်းတိုက်အတွင်း၌ မဟာစည်ဆရာတော်ဘုရားကြီးနှင့်သိမ်သမုတ်ခဲ့စဉ်က

ဒါ့ကြောင့် ဒီပုဂ္ဂိုလ်တွေနှင့် ဒီသာသနာတော်ကြီးကို ဒီလို အချိန် မလွန်မီ ညီညီညွတ်ညွတ်နှင့်ဝိုင်းပြီး ကြိုးစားလိုက်ကြလို့ရှိရင် အမှန်ပင် ပြန်ပြီးတက်လာနိုင်ပါသေးတယ်လို့ ပြောရပါတယ်။

ဒါကြောင့်လဲ ဘုန်းကြီးက အားမလျှော့သေးဘဲ "လူငယ်တွေကို ကိုယ်ကျင့်သီလ လုံကြစမ်းပါ, စိတ်ထား နှလုံးထား ကောင်းကြစမ်းပါ, ဖြောင့်မတ်ကြစမ်းပါ, ဖျတ်ဖျတ်လတ်လတ်နှင့် လုံ့လဝီရိယ ရှိကြစမ်းပါ၊ စွမ်းနိုင်သော ဆရာတော်များကလဲ ရှေ့ဆောင်တော်မူကြစမ်းပါ, လမ်းပြတော်မူကြစမ်းပါ, အလုပ် လုပ်တော်မူကြစမ်းပါ" လို့ ခဏခဏ ဟစ်အော် နှိုးဆော်နေရတာပဲ။

စွမ်းနိုင်တဲ့ဆရာတော်များက သွေးအေးနေတော်မမူကြဘဲ မြို့မှာရှိတဲ့ဆရာတော်တွေက မြို့မှာအလျောက်, တောမှာရှိတဲ့ ဆရာတော်တွေက တောမှာရှိတဲ့အလျောက် တက်တက်ကြွကြွနှင့် ကိုယ်စီကိုယ်င ရှေ့ဆောင်လမ်းပြပြီး ကြိုးစားလိုက်ကြလို့ရှိရင် ဘာကြာလိမ့်မလဲ၊ ၁၀ နှစ် ၁၅ နှစ် အနှစ် ၂၀ အတွင်းမှာပဲ သာသနာတော်ကြီးအခြေအနေဟာ မော်ကြည့်ရမယ့်ဘဝကို ပြန်ရောက်လာနိုင်ပါတယ်၊ အဲလို ဘုရားဟောအတိုင်းသာ ကျင့်လိုက်ကြမယ်ဆိုရင် ဘာကြာလိမ့်မလဲ။

ဒကာကြီးတို့က "သာသနာတော်ကို ပြုပြင်ဖို့ ဘယ်လို မြင်ထားပါသလဲဘုရား"လို့လျှောက်ကြလို့ ဘုန်းကြီးက ဖြေရတာ၊ "ဒီနည်းနဲ့ ပြုပြင်ရင် ရနိုင်တယ်လို့ ဘုန်းကြီးမြင်ထားပါတယ်"ဟူ၍ ဖြေကြားတော်မူပြီးလျှင် ထိုနေ့ည တရားပွဲကို အဆုံးသတ်လိုက်ပါသည်။

ဆရာတော်၏ ဟောပြောချက်တို့ကို အသံဖမ်းကြိုးခွေဖြင့် ဒကာထိန်ဝင်းက ဖမ်းယူ သွင်းထား

လိုက်ခဲ့၍ ယခုလို ပြန်လည်တင်ပြနိုင်ခြင်း ဖြစ်ပါသည်။

နောက်တစ်နေ့ (၂-၁-၅၈) နေ့တွင်လည်း ဤဒကာကြီးများပင် လာရောက်ကြ၍ ဤသဘောမျိုးနှင့် အခြား တရားများကိုပါ ဟောပြောတော်မူရသည်။

၃-၁-၅၈ နေ့တွင် အနားယူရင်း ကျန်းမာရေးအစစ်ဆေးခံသည်၊ ဒေါက်တာ မွန်းအောင်က ဆရာတော်၏ သွားများကို စနစ်တကျ ကြည့်ရှုစစ်ဆေးပေးသည်။

၁၃၁၉ ခု ပြာသိုလပြည့်နေ့ (၄-၁-၅၈) နေ့ နံနက်တွင်ကား ဦးပွင့်ကောင်း ဒေါ်နွဲ့နွဲ့ရီတို့က ဆောက်လုပ်ကိုးကွယ်သော ထိုမဟာဂန္ဓာရုံကျောင်းတိုက်အတွင်း၌ အခြား ဆရာတော်ကြီးများနှင့်အတူ သိမ်သမုတ်တော်မူပြီးလျှင် "သာသနဝိသုဒ္ဓိသိမ်"ဟု အမည်ပေးတော်မူသည်။

ထိုနေ့ ညနေပိုင်းတွင် ... ဆရာကြီး သခင်ကိုယ်တော်မှိုင်းရှိသော (ဆရာကြီးဇေယျ) ဦးယောအိမ်သို့ သွား၍ အသက်အရွယ် ကြီးရင့်လှပြီဖြစ်သော ဆရာကြီး သခင်ကိုယ်တော်မှိုင်းနှင့် တွေ့ဆုံနှုတ်ဆက်စကား အနည်းငယ် ပြောပြီးလျှင် ပြန်လာတော်မူခဲ့သည်။



ဆရာတော် အရှင်ဇနကာဘိဝံသအား ဓာတ်ပုံပညာရှင် ဦးခင်လေးမောင်က ဓာတ်ပုံရိုက်ယူနေသော မြင်ကွင်းအား

ဒကာ ဦးထိန်ဝင်းက မှတ်တမ်းတင်ထားပုံ

# သတ္တမဆယ်စုနှစ်
## ၁၃၂၁-၁၃၃၁



"သက်စုနှစ်ဆယ်, ဤအရွယ်ကား, သွယ်သွယ်ရှင်လူ, ပင်စင်ယူ၏၊
ကိုယ့်မူထိုမျှ, ခွင့်မရ၍, နေ့ညမအား, အလုပ်များကို, မနားမနေ, လုပ်နိုင်စေဖို့"

## ပရဟိတသံဃာ့အစည်းအဝေး၌ လျှောက်ထားပန်ကြားခြင်း

### ကိုယ့်တာဝန်လို စဉ်းစားခဲ့

ယခုအခါ အရှင်ဇနကာဘိဝံသ ဆရာတော်ကြီးသည် သက်တော်အားဖြင့် ၆၀ ကျော် ၇၀ အတွင်းသို့ပင် ချဉ်းနင်း ဝင်ရောက်တော်မူလာခဲ့လေပြီ၊ ရဟန်းသိက္ခာ ခပ်ရွယ်ရွယ်မှ စ၍ ဗုဒ္ဓမြတ်စွာ သာသနာတော်ကြီး၏ အရေးကို တွေးခဲ့၏၊ ရေးခဲ့၏၊ ပြောခဲ့၏၊ ဆိုခဲ့၏၊ ဆွေးနွေးခဲ့၏၊ တိုင်ပင်ခဲ့၏၊ စဉ်းစားခဲ့၏၊ ဘိုးဘွား လက်ထက်ကစပြီး ယခုတိုင်အောင် ဖူးတွေ့နေရသော ဗုဒ္ဓမြတ်စွာ သာသနာတော်ကြီး၏ အရေးမှာ ရင်မအေးစရာ အခြေအနေတွင် တည်ရှိနေ၏၊ သာသနာ့ဝန်ထမ်းများ ပေါ့လျော့ပါလျှင် မကြာခင် လျှောသက်သွားနိုင်၏။

လျှောသက်မသွားရေး, တည်တံ့နေရေး, ဖြစ်နိုင်ပါလျှင် သန့်ရှင်း၍ တိုးတက် ပြန့်ပွားရေးတို့အတွက် "မည်သို့ ဆောင်ရွက်သင့်သနည်း"ဟု နီးစပ်သူတိုင်းနှင့် နှီးနှောမိ၏၊ ကြုံတွေ့သူတိုင်းနှင့် ဆွေးနွေးမိ၏၊ လမ်းစရှာမိ၏၊ သို့သော် ရောဂါ သိလျက် အကုခက်သော လူမမာကဲ့သို့ လမ်းစတွေ့လျက် မဆောင်ရွက်နိုင်သော အနေမျိုး ဖြစ်ရ၏၊ ကိုယ်တော်တိုင်ကား စွမ်းအားရှိသမျှ ဝီရိယဖြင့် တလှုပ်လှုပ်တရွရွ ဆောင်ရွက်တော်မူလာခဲ့သည်။

### ပန်ကြားဖို့ အကွက်ပေါ်လာ

သက္ကရာဇ် ၁၃၂၁ ခုနှစ် သီတင်းကျွတ်ပြီးစတွင် ပရဟိတသံဃာ့အဖွဲ့ဝင် အရှင်မြတ်တို့ အစည်းအဝေး ထိုင်တော်မူကြ၏၊ အနာဂတ်သာသနာရေးအတွက် ဆောင်ရွက်တော်မူနေကြသော ပရဟိတအဖွဲ့ဝင် ထိုအရှင်တို့သည် ဆရာတော် အရှင်ဇနကာဘိဝံသကိုလည်း ပင့်ဖိတ်ထားကြ၏၊ "ဆရာတော်ဘုရားက ဤအစည်းအဝေးတွင် ဩဝါဒပေးတော်မူပါ"ဟုလည်း ကြိုတင် အသိပေး လျှောက်ထားကြ၏၊ ထို့ကြောင့် ဤအစည်းအဝေးတွင် မိမိမြင်ထားသမျှ, သိထားသမျှကို အားရပါးရ လျှောက်တင်လိုက်မည်ဟု အားခဲပြီးလျှင် အောက်ပါအတိုင်း လျှောက်ထား ပန်ကြားလိုက်လေသည်။

### အရှင်ဇနကာဘိဝံသ လျှောက်ထားချက်

အကျိုးတော်ဆောင် ဆရာတော်က တပည့်တော်ကို ဩဝါဒကထာ ချီးမြှင့်ပါရန် တောင်းပန်သော်လည်း ပရဟိတအဖွဲ့ဝင် အရှင်မြတ်တို့အား ဩဝါဒအနေအားဖြင့် မိန့်ခွန်းပေးခြင်းထက် ရိုသေစွာ လျှောက်ထားခြင်းက သံဃာ့ဂါရဝ ဖြစ်သောကြောင့် သာသနာတော် ထုံးတမ်းအရ ရိုသေစွာ လျှောက်ထားပါရစေဘုရား။...

ယခုလျှောက်ထားမည့် အကြောင်းအရာများကို အရေးကြုံလာမှ ကြံတွေး၍ ဝတ်ကျေတန်းကျေ လျှောက်ခြင်း မဟုတ်ပါ၊ ကြာမြင့်စွာက စဉ်းစားပြီး ဖြစ်၍ တပည့်တော်ရဲ့ နှလုံး အသည်းထဲမှာ စွဲနေပြီ ဖြစ်သော အကြောင်းအရာများ ဖြစ်ပါသည်၊ ပရဟိတသံဃာ့အဖွဲ့ဝင် အရှင်ဘုရားတို့လည်း တပည့်တော် ကဲ့သို့ သာသနာ့အရေးကို တွေးပြီး ဖြစ်ကြလိမ့်မည်လို့ ယုံကြည်ပါသည်၊ သို့ဖြစ်၍ "ယခုလျှောက်မည့် အချက်တို့တွင် များစွာသော အချက်တို့မှာ အရှင်တို့နှင့် သဘောတူနိုင်စရာ ရှိပါ၏"ဟု မျှော်လင့်ကာ ပွင့်ပွင့်လင်းလင်း လျှောက်ပါရစေဘုရား။

## ရှေးဖြစ်ဟောင်း အောက်မေ့ဖွယ်

တပည့်တော်များ၏ ဗုဒ္ဓမြတ်စွာသာသနာတော်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်ဝယ် အနော်ရထာမင်းလက်ထက်မှစ၍ ခိုင်မြဲစွာ အခြေစိုက်လာခဲ့သောကြောင့် ယခုအချိန်ထိဆိုလျှင် နှစ်ပေါင်း ၉၃၀ ကျော်ကြာရှည်ခဲ့ပါပြီ၊ သို့ဖြစ်၍ မြန်မာနိုင်ငံတော်ဝယ် သာသနာတော်အသက်သည် မူလ ဘုရားပွင့်တော်မူရာ အိန္ဒိယနိုင်ငံထက်ပင် ကြာရှည်စွာ တည်ခွင့်ရသည်လို့ ယူဆရပါသောကြောင့် တပည့်တော်ရဲ့စိတ်မှာ တိုင်းသူပြည်သားနှင့် သာသနာ့ဝန်ဆောင် ရှေးရှေးထိပ်ခေါင်တင် ဆရာတော် သံဃာတော်များကို လေးလေးစားစား ကျေးဇူးတင်ပါသည်ဘုရား။

## တာဝန်ကျေသောဆရာတော်များ

ထိုစဉ်အခါက သာသနာ့တာဝန်ကို လူဒါယကာများဘက်ကလည်း လူ့အလိုက်, သံဃာတော်များဘက်ကလည်း သံဃာ့အလိုက် သိုက်သိုက်မြိုက်မြိုက် တာဝန်ကျေအောင် ထမ်းဆောင်ခဲ့ကြသောကြောင့် ခုလောက်အချိန်ကြာရှည်စွာ သာသနာတော်တည်နေပါသည်၊ ထင်ရှားစေပါဦးမည်၊... ထိုအချိန်က ဆရာတော် အဆက်ဆက်သည် ဘုရားတရားတော် ပိဋကတ်ကျမ်းစာများကိုလည်း ပါရဂူရောက် တတ်မြောက်အောင် သင်ယူတော်မူကြ၏၊ သူ့ခေတ် သူ့အခါ လူဝတ်ကြောင်များနှင့်ဆိုင်သည့် အပြစ်ကင်းသည့် ပညာများကိုလည်း ဆရာအဖြစ်ရောက် တတ်မြောက်အောင် ကြိုးစားတော်မူကြ၏။

ထိုသို့ တတ်မြောက်ပြီးသောအခါ ကိုယ်တိုင်လည်း အနေအထိုင် သိပ်သည်းစွာဖြင့် နေ၍ ဗုဒ္ဓတရားတော်များမှ လူနှင့်ဆိုင်သော ပေါင်းသင်းဆက်ဆံမှု ယဉ်ကျေးမှုများကိုလည်း ကလေးသူငယ်တို့အား သင်ပြတော်မူကြ၏၊ လူဝတ်ကြောင်ဆိုင်ရာ "နော ဇေ နော"စသော ဂဏန်းသင်္ချာကိုလည်း (စပါးတွက် သစ်တွက်ပါ မကျန်) သင်ပေးတော်မူကြ၏။

ထိုသို့ ခေတ်အားလျော်စွာ လူ့တစ်ဘဝလုံး အသုံးကျအောင် သင်ပြပေးလိုက်ရုံမက ကျောင်းမှ ထွက်ပြီးသော တပည့်များကိုလည်း အသောက်အစား အကစား မရှိရအောင် မကြာ မကြာ ဆုံးမတော်မူကြသဖြင့် ရွာတိုင်း ရပ်တိုင်းမှာ ထိုခေတ်နှင့် ဆီလျော်သော လူတော်လူကောင်းတွေ အပြည့်ရှိနေကြပါသည်၊ ထိုသို့သော ဘုန်းတော်ကြီးများ၏တပည့် တစ်ယောက် နှစ်ယောက် စသော သဒ္ဓါ ပညာ ထူးချွန်သူတို့သည်လည်း ရဟန်းဘဝသို့ ရောက်လာကြသဖြင့် ထိုရဟန်းတော်များလည်း အများအားဖြင့် ရပ်ရွာ၏ ဆရာဖြစ်နိုင်သော အရည်အချင်း ပြည့်ဝသူများသာ ဖြစ်ပါပေသည်။

## တာဝန်ကျေသော ဒါယကာများ

လူဝတ်ကြောင်ဘဝ၌ နေကြရသော ဒါယကာတို့တွင် ရပ်သူရွာသားများလည်း ဘုန်းကြီးကျောင်းထွက်, ရွာသူကြီးလည်း ဘုန်းကြီးကျောင်းထွက်, မျိုးကြီးမတ်ရာ သေနာပတိအပြင် ရှင်ဘုရင်သော်မှလည်း ဘုန်းကြီးကျောင်းသားပင် ဖြစ်ခဲ့ရကား မိမိ၏ တစ်ဘဝလုံး လူရာဝင်ရေးကို အခကြေးငွေ တစ်ပြားတစ်ချပ်မှ မယူဘဲ သက်သက် မေတ္တာ ကရုဏာ ရှေ့ထား၍ သင်ပေးလိုက်သော ဆရာသမားတို့အား ပြော၍ မပြနိုင်အောင် ကျေးဇူးတင်လှသဖြင့် မိမိတို့ စားဦးစားဖျားကို ကြည်ကြည်ဖြူဖြူ ပေးလှူကြ, လူရည်တတ်ဖြစ်သော တပည့်များကလည်း ဘုရားတည်ကြ, ကျောင်းဆောက်ကြ၍ မျိုးမတ် သေနာပတိနှင့်

ပြည့်ရှင်မင်းတို့က သာသနာတော်ကို ချီးမြှောက်ကြသဖြင့် ဒါယကာတာဝန်ကို အစွမ်းကုန် ကျေပွန်စေကြပါသည်။

ဤနည်းအားဖြင့် မြန်မာမင်း အဆက်ဆက်တို့ လက်ထက်ဝယ် ဆရာ, ဒကာ တာဝန်ကျေပွန်စွာ ထမ်းဆောင်လာမှုကြောင့် ဤသာသနာတော်သည် မြန်မာနိုင်ငံတော်၌ ဤမျှ ကြာရှည်အောင် တည်နေနိုင်ခဲ့ပါသည်။

## ခေတ်ပြောင်းဖို့ စ၍ လာချိန်

ဤနည်းအားဖြင့် တပည့်တော်တို့၏ ဗုဒ္ဓမြတ်စွာသာသနာတော်သည် ဤမြန်မာနိုင်ငံတော်၏ပူဇော်မှုကို ခံယူ၍ တည်တံ့လာခဲ့ရာ ခေတ်ကာလ ကြာညောင်းစွာပင် လေးစားမှုကို ခံယူ၍ လာခဲ့ရပါသည်၊ ဤနည်းဖြင့် အမျိုး, ဘာသာ, သာသနာ, ပညာအကျိုးကို ဆရာနှင့် ဒါယကာ စည်းလုံးစွာဖြင့် သယ်ပိုးရွက်ဆောင်နိုင်ခဲ့ပါသော်လည်း သင်္ခါရမှန်သမျှတို့ ပြောင်းလွဲကြသည့် ဓမ္မတာအတိုင်း မင်းတုန်းမင်းလက်ထက်၌ ပြောင်းလွဲဖို့ စလာပါသည်။

မန္တလေးနေပြည်တော်ဝယ် ထိုအခါက "သံတဲကျောင်း"ခေါ် အင်္ဂလိပ်စာပေပညာကို သင်ပေးသော ကျောင်းတစ်ကျောင်း ပေါ်ခဲ့ပါသည်၊ ထိုကျောင်းတွင် မင်းဆွေမင်းမျိုးများအပြင် ဘုရင်မင်း၏ သားတော်အချို့လည်း အခြွေအရံများနှင့်အတူ နေ့စဉ်သွား၍ ပညာသင်ကြားသည်ဟု တစ်ဆင့်ကြားဖူးပါသည်။

ထိုမင်းသားများ ဘာသန္တရ သင်ခြင်းသည် အပျော်တမ်းသင်ခြင်း မဟုတ်၊ နိုင်ငံခြားနှင့် ဆက်ဆံရာဝယ် စကားပြန်မထားဘဲ မိမိတို့ဘာသာ တိုက်ရိုက်ဆက်ဆံနိုင်အောင် သင်ကြခြင်း ဖြစ်ပါလိမ့်မည်၊ သို့ဖြစ်လျှင် ရှေးရှေးက သင်လာသော သင်ရိုးပညာသည် "နေရာတိုင်းမှာ အသုံးမဝင်"ဟု အဓိပ္ပာယ်သက်ရောက်နေရကား ထိုအချိန်ကပင် ထိပ်ခေါင်တင်ဆရာတော်အချို့လည်း ထိုအဓိပ္ပာယ်ကို စဉ်းစားမိတော်မူကြပါလိမ့်မည်၊ ထို့ကြောင့်ပင် "ရွှေကျင်ဆရာတော်ဘုရားကြီးသည် အင်္ဂလိပ်စာများကို အတော်အတန် လေ့လာတော်မူသည်"ဟု တစ်ဆင့် ကြားသိရပါသည်။

## ဖြစ်ထိုက်လျက် မဖြစ်ခဲ့၍

ထိုအချိန်၌ တပည့်တော်တို့၏ ဘေးတော် ဘိုးတော် ဆရာတော်တချို့သည် ထိုဘာသန္တရကိုလည်း "နော ဇေ နော"စသော ဂဏန်းသင်္ချာကဲ့သို့ သဘောထား၍ ကိုယ်တိုင်လေ့လာကြပြီးလျှင် မြို့နေ တပည့်တို့အား သင်ကြားပေးခဲ့ကြပါမူ ယခုလို အချိန်မှာ နိုင်ငံခြား၌ ဘာသာခြားဘုန်းကြီးများ အုပ်ချုပ်လျက်ရှိသော တက္ကသိုလ်ကြီးများကဲ့သို့ ပိဋကတ်တော်နှင့်တကွ ဘာသန္တရကို ပို့ချနိုင်သော တက္ကသိုလ်ကြီးတို့သည် မန္တလေး ရန်ကုန် နေပြည်တော်များ၌ မားမားမတ်မတ် တည်ရှိကြလေရာ၏၊ ထိုကဲ့သို့ ဖြစ်ခဲ့လျှင် တပည့်တော်တို့၏ ဗုဒ္ဓမြတ်စွာ သာသနာတော်သည် ဤနိုင်ငံတော်၌သာမက အခြားနိုင်ငံသို့ပင် အရှိန်အဝါတောက်ပလျက် ရှိရာ၏။

ယခုမူကား ဖြစ်ထိုက်သောအချက်များ ပျက်ကွက်ခဲ့သည့်အတွက် များစွာသော ကျေးရွာဘုန်းတော်ကြီးကျောင်းများ၌ ကျောင်းသားသူငယ်မျှ မရှိကြတော့ပါ၊ ထိုသို့ ကျောင်းသားသူငယ် မရှိခြင်းမှာလည်း တပည့်တော်တို့၏ ဘုန်းတော်ကြီးများက ကလေးသူငယ်တို့ကို လူရာဝင်အောင် မသင်ပြနိုင်ခြင်းကြောင့် ဗုဒ္ဓဘာသာဝင် သားရှင်မိဘတို့က မိမိတို့သားကို မိမိတို့ နေခဲ့သော ကျောင်းမှာပင် ထားလိုပါလျက် မထားနိုင်တော့ဘဲ မတတ်သာ၍ ခပ်ခွာခွာ နေကြရခြင်း ဖြစ်ပါသည်။

## သာမန်အန္တရာယ်မဟုတ်ပါဘုရား

ကျေးရွာဘုန်းတော်ကြီးကျောင်းများ၌ ကျောင်းသားမရှိခြင်းသည် သာသနာတော်အတွက် သာမန် အန္တရာယ် မဟုတ်ပါ၊ သစ်ပင်ကြီး၌ ရေသောက်မြစ်ပြတ်နေသည့်ပမာ ကြီးစွာသောဓမ္မန္တရာယ်ဖြစ်ကြောင်း ကို ပရဟိတအဖွဲ့ဝင် အရှင်များလည်း စဉ်းစားပြီး ဖြစ်ကြပါလိမ့်မည်၊ တပည့်တော်တို့၏ လက်ရှိ သာသနာ့ ဝန်ဆောင်များသည် ငယ်ရွယ်စဉ်ကပင် ပိဋကတ်ပညာ အလိမ္မာတို့ကို အခြေခံရခဲ့သောကြောင့် တစ်စ တစ်စ ကြီးပွားလျက် သာသနာ့တာဝန်ကို ဆောင်နိုင်ကြသည် မဟုတ်ပါလော။

ဘုန်းကြီးကျောင်းသား မရှိလျှင် ရှင်သာမဏေလည်း ကြာရှည်စွာ ဖြစ်မည့်သူ မရှိနိုင်တော့ပါ၊ သာမဏေဘဝမှ စ၍ အဆက်ဆက် တာဝန်ဆောင်ကြမည့် ရဟန်းတော်များလည်း မရှိနိုင်တော့ပါ၊ ထို့ပြင် ဘုန်းတော်ကြီးများရဲ့ အသင်အပြကို မခံကြရသော တိုင်းသူပြည်သားတို့လည်း ဘုန်းကြီးများကို မိရိုးဖလာ လောက်သာ ကိုးကွယ်ကြတော့မည် ဖြစ်၍ "သာသနာစစ်စစ်ကို ထောက်ပံ့မည့်သူများ"ဟု လေးစားလောက် သူများ မဖြစ်နိုင်တော့ပါ။

သစ်ပင်ကြီးမှာ ရေသောက်မြစ် ပြတ်နေရသည့်ပြင် ပတ်ဝန်းကျင် အမြစ်ကလေးများမှာလည်း အအေးဓာတ် မရတော့သကဲ့သို့ အခြေခံကျောင်းသားများလည်း မရှိတော့ဘဲ ထောက်ပံ့ချင်သူ တစ်စ တစ်စ နည်းပါးရာမှ လုံးဝ မရှိတော့သည့် အဖြစ်သို့ ရောက်ရပါတော့မည်၊ အသီးအပွင့် ဝေဝေဆာဆာနှင့် လွန်စွာ အရိပ်ကောင်းခဲ့သော ဗုဒ္ဓမြတ်စွာ သာသနာသစ်ပင်ကြီးသည် မကြာမီ ခြောက်သွေ့ယိုင်လဲ၍ မခိုင်မြဲသောအခြေသို့ ဆိုက်ရပါတော့မည်။

## အန္တရာယ်ကို ဘယ်လို တားမလဲ

တပည့်တော်များ၏ ဘုရားရှင်သည် ပဋိစ္စသမုပ္ပာဒ်ဒေသနာတော်မှ စ၍ အကြောင်းရှိမှ အကျိုးဖြစ်ပုံကို ဟောပြတော်မူလေ့ရှိပါသည်၊ "အကြောင်းမဲ့သက်သက် အကျိုးဖြစ်သည်"ဟု တစ်ခုတလေမျှ ဟောတော် မမူပါ၊ တပည့်တော်တို့သာသနာတော် ဆုတ်ယုတ်ရာမှ ကွယ်ပမည့်အချက်၌လည်း ပြခဲ့သော အကြောင်း ကြောင်းတွေ ထင်ရှားနေပြီ မဟုတ်ပါလော၊ မကောင်းသော အကြောင်းကြောင့် မကောင်းသောအကျိုးကို တွေ့ရလျှင် မကောင်းသော အကြောင်းနေရာဝယ် ကောင်းသောအကြောင်းကို လဲလှယ်နိုင်ပါမှ ကေန်မုချ ကောင်းကျိုးရမည်ကိုလည်း တပည့်တော်တို့ သိနိုင်ကြပါသည်။

ယခုအခါ ဘုန်းတော်ကြီးကျောင်းများ၌ ကျောင်းသား မရှိမှုသည် အရေးကြီးဆုံး အကြောင်းဟု ကောင်းကောင်းသဘောပေါက်ပြီးသော တပည့်တော်တို့သည် ကျောင်းသားရှိလာအောင် ဘယ်လို ပြုပြင် ကြမည်နည်း?၊ ခေတ်ဟောင်းတုန်းက ပထမပြန်စုံစမ်းရေးကော်မတီ ပေါ်လာသောအခါ ကော်မတီတွင် ပါဝင်သော ကျေးဇူးရှင် အဘယာရာမဆရာတော်သည် မူလတန်းဂဏန်းသင်္ချာနှင့် အခြေခံပါဠိမျှကို ပထမတန်းမဝင်မီ တစ်ဆင့်ထားဖို့ အကြံပေးခဲ့ဖူးပါသည်။

## အရေးကြီးတဲ့ အချိန်အခါဖြစ်ခြင်း

ယခုအခါ သာသနာတော်ကို ပြုပြင်လိုသော ပုဂ္ဂိုလ်များ အတော်ကလေး လှုပ်လှုပ်ရွရွ ဖြစ်လာကြ ပါပြီ၊ လှုပ်လှုပ်ရွရွ ဖြစ်ရခြင်းမှာလည်း ဤအတိုင်းသွားလျှင် "မြန်မာနိုင်ငံသာသနာသည် သိပ်မကြာတော့" ဟု အမြင်ပေါက်သူတွေ များလာသောကြောင့် ဖြစ်ပါသည်၊ မြန်မာနိုင်ငံသာသနာတော်သည် တစ်နည်း အားဖြင့် ဆေးမှားမခံသောလူနာနှင့် တူနေပါသည်၊ ဘာဆေးမျှမကျွေးဘဲ-လက်ရှိဓာတ်စာများနှင့်ထားလျှင်

ဤလူနာသည် သူ့အလိုလို တဖြည်းဖြည်း သွားရှာပါလိမ့်မည်၊ ခေတ်ပေါ်ဆေးများကို တိုက်ကျွေးကုသလျှင်ကား အနာနှင့်ဆေး သင့်အောင်ပေးဖို့ အရေးကြီးပါသည်၊ ဆေးတစ်ချက်မှားလျှင် ဖြတ်ခနဲ သွားပါလိမ့်မည်။

ဤဥပမာဖြင့် "ဘာကို ဆိုလိုပါသလဲ?"ဟု မေးလျှင် လက်ရှိစာသင် စာချ စာမေးပွဲကျင်းပ၍ ဘုရားပွဲ ကျောင်းပွဲ ကထိန်ပွဲ ရှင်ပြု အလှူပွဲ စသော ပကာသနဒါနမှုတို့သည် ဤသို့ ပြုရင်း ပြုရင်းပင် သာသနာတော်လည်း တဖြည်းဖြည်း ဆုတ်ယုတ်၍ဆုတ်ယုတ်၍ လာသောကြောင့် မျှော်လင့်ချက် မရှိသော လူမမာကို "စားချင်တာ စားပါစေတော့"ဟု ဆေးဆရာက ပြောသဖြင့် ဆွေမျိုးများက စားချင်တာကို ပေးနေသည်နှင့် တူလှပါသည်၊ ဤနည်းကို တဖြည်းဖြည်းသွားမည့် "သူနာကြိုက် ခတ်စာပေးနည်း"ဟု ဆိုလိုပါသည်။

## ကြိုတင်၍လည်း စဉ်းစားဖွယ်

တစ်ဖန် အင်္ဂလိပ်စာ, ဂဏန်းသင်္ချာတို့ကို ဆရာလုပ်ဖို့ သင်ပေး၍ ကျေးရွာကျောင်းများ၌ ကျောင်းသားတွေ ပြန်လည် လာစေမည်ဟု ရည်ရွယ်သော်လည်း တကယ် တတ်လာသောအခါ လူထွက်သူကထွက်, ကျောင်းလခယူ၍ စာပြသူကပြ, ဤသို့ လုပ်နေကြလျှင်ကား ဆေးမှားသော လူနာလိုပင် မကြာခင် သာသနာ ကွယ်သွားပါလိမ့်မည်၊ ဤအချက်သည် အမှန်တင်ကြို၍ တွက်ရမည့်အချက် ဖြစ်ပါသည်၊ ဘာ့ကြောင့်နည်း?...

အဏုမြူခေတ်ကို တွေ့ရှိအောင် ကြိုးစားသော လောကခေတ်ဆရာတို့သည် သူတို့၏ အဏုမြူကို လူသားများ အကျိုးရှိသောနေရာတွင် သုံးစေလိုသော်လည်း ယခုအခါ လူသားတွေ အစုလိုက် အပြုံလိုက် သေမည့်ကိစ္စ၌ အသုံးချနေသကဲ့သို့ မျှော်လင့်ချက်က တခြား, လက်တွေ့က တခြား ဖြစ်နေတတ်သောကြောင့် ဘာသန္တရအတွက် သာသနာကွယ်လွယ်မည့် အချက်ကိုလည်း ကြိုတင်၍ တွက်ရပါလိမ့်မည်။

## တကယ်အမှန် မျှော်လင့်ဖွယ်

တပည့်တော်များ၏ သာသနာ့ဝယ် သဒ္ဓါတရားဖြင့် နေထိုင်သော ရဟန်း သာမဏေများ အတော်များများ ရှိပါသေးသည်၊ ထိုရဟန်း သာမဏေများ၌ သာသနာပြုစိတ် သွင်းပေးရလျှင် ပရဟိတသာသနာ့ဝန်ဆောင်တွေ အများအပြား ဖြစ်လာနိုင်စရာရှိပါသည်၊ အကယ်၍ တပည့်တော်သာ တတ်နိုင်၍ စီစဉ်ရလျှင်...

၁။ ဤသာသနာတော်ကို မှီလျက် မိမိတို့မှာ ကုသိုလ်ပါရမီ တိုးပွား၍ လောက, သံသရာ နှစ်ဖြာအကျိုးများအောင် စွမ်းဆောင်နိုင်ပုံကို သင်တန်းပေးပါမည်။

၂။ မြင်မြင်သူ လူအများ၏ စိတ်ကို ဆွဲဆောင်နိုင်လောက်အောင် အဝတ်အစား, အနေအထိုင်, အပြောအဆို ယဉ်ကျေးသိမ်မွေ့ဖို့ သင်တန်းပေးပါမည်။

၃။ လောဘ ဒေါသ မာန နည်းပါး၍ လောကီဂုဏ်ပကာသနကို လိုလားစိတ် ကင်းဖို့ သင်တန်းပေးပါမည်။

၄။ ဝိဋကတ်စာပေနှင့်အတူ အနုဝဋ္ဋ သိပ္ပံ, ဝိဇ္ဇာတို့ကို ဆရာလုပ်နိုင်သည်အထိ တတ်မြောက်အောင် သင်ယူကြဖို့ သင်တန်းပေး၍ ထိုကဲ့သို့ သင်ယူနိုင်အောင်လည်း စီစဉ်ပေးပါမည်။

၅။ ထိုပညာတို့ကို တတ်မြောက်သောအခါ အမျိုး, ဘာသာ, သာသနာ, ပညာ, အကျိုးသက်သက်ကို ပါရမီဖြစ် ဆောင်ရွက်ကြဖို့ သင်တန်းပေးပါမည်။

## ဂုဏ်ရှိရှိနှင့် တည်စေမည်လား? ဂုဏ်မဲ့မဲ့နှင့် ကွယ်စေမည်လား? ဘယ်လို လက်ခံကြမည်နည်း?

တပည့်တော်တို့ လိုလားသော အချက်များကို အရှင်ဘုရားတို့သည် လေ့လာပြီး ဖြစ်ကြပါလိမ့်မည်၊ တပည့်တော်တို့၏ ဗုဒ္ဓမြတ်စွာ သာသနာတော်ကို ပြခဲ့သော ဂုဏ်အင်္ဂါတို့နှင့် ပြည့်စုံသော ပုဂ္ဂိုလ်အများ စိတ်ထားညီညီနှင့် ထမ်းဆောင်နိုင်ကြပါလျှင် ဗုဒ္ဓမြတ်စွာ သာသနာတော်သည် ဤမြန်မာနိုင်ငံတော်ဝယ် ဂုဏ်ရှိရှိနှင့် ခိုင်ခံ့တည်ကြည်စွာ အမျိုး ဘာသာ ပညာအကျိုးကို ဆောင်ရွက်လျက် ဘုန်းကျက်သရေ တိုးတက်နေပါလိမ့်မည်။

ထိုသို့မျှ မထမ်းဆောင်နိုင်ကြလျှင်ကား တပည့်တော်တို့ အားလုံးပင် ဂုဏ်မဲ့ သိန်မဲ့ ဖြစ်ကာ ဤ သာသနာတော်လည်း ဤနိုင်ငံမှ ကွယ်ပပါလိမ့်မည်၊ ထို့ကြောင့် "နိုင်ငံတော်အဝန်း၌ သီတင်းသုံးနေထိုင် ကြသော ရဟန်း သာမဏေတို့အား ဂုဏ်ရှိရှိနှင့် သာသနာတော်ကို တည်စေကြမည်လား? ဂုဏ်မဲ့မဲ့နှင့် သာသနာတော်ကို ကွယ်စေကြမည်လား?" ဟူသော ပြဿနာကို ဤပရဟိတသံဃာ့အဖွဲ့ဝင်အရှင်မြတ် တို့၏ မျက်မှောက်၌ မေးလျှောက်လိုပါသည် သာသနာတော်ဝင် အရှင်မြတ်တို့ဘုရား...။

## နိဂုံးလင်္ကာ ပန်ကြားလွှာ

**ပရဟိတ, မည်နာမဖြင့်, သံဃာ့အဖွဲ့ဝင်, အို...အရှင်တို့၊ ဤတွင်စည်းဝေး, သာသနာ ရေး၌, လေးလေးနက်နက်, လျှောက်ထားချက်ကို, နှစ်သက်ကြည်စွာ, လက်ခံပါလော၊**

**မြန်မာဌာနီ, ရှေးခါဆီဝယ်, မထေရ်အပေါင်း, စံရာကျောင်းမှ, ငြိမ့်ပြောင်းသာယာ, မိန့်အာဏာကို, ရပ်ရွာလူများ, လွှန်လေးစားခဲ့၊**

**ခုကားသို့နှယ်, မဟုတ်ကွယ်၍, နယ်ပယ်ပွားစီး, သားသမီးတို့, ဘုန်းကြီးကျောင်းတွင်, စာမသင်တော့၊**

**ထိုပြင်မြို့နေ, ကလေးတွေကား, တို့မေဘာသာ, တို့မေစာကို, သင်ရာကောင်းမျှ, မထင်ကြဘဲ, ပြင်ကလာပေး, စာပထွေးကို, အလေးဂရု, အရေးပြု၏၊**

**ယခုလိုသာ, နှစ်ပေါင်းကြာလျှင်, မြန်မာတိုင်းဖွား, အမျိုးသားတို့, ဘုရားကိုစွန့်, တရားစွန့်၍, စွန့်လိမ့်မှန်စွာ, မြတ်သံဃာတည်း၊**

**ထိုခါတိုင်းဖွား, လူအများလည်း, တရားမပါ, အမှားစာကြောင့်, များစွာခုထက်, တိုး၍ပျက်လိမ့်၊**

**သို့တွက်များပြား, ဘုန်းဘုရားတို့, တရားကိုယ်ကျင့်, လုံအောင်ကျင့်၍, မလင့်စေရ, ကိုယ့်ဒေသ၌, သိပ္ပဝိစ္စာ, ပြသင့်ရာကို, ကောင်းစွာပိုင်ပိုင်, ပြသနိုင်မှ, ဘုန်းလှိုင်ဟောပြ, ဩဝါဒကို, စိတ်ကကြည်ဖြူ, လိုက်နာယူလျက်, ကိုယ်မှုနှုတ်ပြောင်း, စိတ်လည်းကောင်းလိမ့်၊**

**မကောင်းအကောင်း, အကြောင်းကြောင်းကို, သောင်းပြောင်းကုန်စင်, အစုံမြင်သည့်, ထေရ်ရှင်များစွာ, ဒါယကာတို့, အခါအခွင့်, ပဏာတင့်အောင်, စာချင့်စုပေါင်း, နည်းသစ် ပြောင်းမှ, နောက်နောင်းမြန်မာ, သာသနာသည်, ရှည်ကြာနေသို့, ထွန်းမည်ကို။**

အရှင်ဇနကာဘိဝံသ

၁၃၂၂ ခု သီတင်းကျွတ်လဆန်း ၈ ရက် — အမရပူရမြို့

# ကျေးလက်တောရွာတို့၏ ပန်းပုဆရာများ

## လိမ္မာတတ်ကျွမ်းသူလိုအပ်

တောသူတောင်သားများသည် အလွန်ရိုးသားကြ၏၊ စိတ်ထားလည်း ဖြူစင်တတ်ကြ၏၊ မာယာဉာဏ်များ၍ ဆန်းပြားကွေ့ကောက်သော ပတ်ဝန်းကျင်တို့၏ လွှမ်းမိုးမှုကို မခံရသဖြင့် တောရပ်ဒေသ၌ သဘာဝပင်ကိုအတိုင်းပင် အများအားဖြင့် ရိုးသားတတ်ကြပါသည်၊ ထိုအခြေအနေသည် ပန်းပုဆရာလက်ထဲ၌ ပုံကြမ်းပင် မလောင်းရသေးသော သစ်ရိုင်းတုံးများသဖွယ် ဖြစ်ကြပါ၏၊ သစ်ရိုင်းတုံးကို ဘီလူးရုပ်ပုံကြမ်းလောင်း၍ ပန်းပုဆရာက ဘီလူးရုပ်ထုလုပ်လျှင် ကြောက်စရာကောင်းသော ဘီလူးရုပ်ကြီး ဖြစ်လာမည်၊ မင်းသားရုပ် ပုံစံချ၍ လုလုပပကလေး ထုလျှင်လည်း ချစ်စရာ မြတ်နိုးစရာကောင်းသော မင်းသားရုပ်ကလေး ဖြစ်လာရပါမည်၊ ပုံသွင်းသလို ဖြစ်လာနိုင်သော အခြေအနေတွင် ရှိကြ၏၊ ဤကား တောသူတောင်သား ကလေးသူငယ်များနှင့် ဒါယကာ ဒါယိကာမများကို ဆိုလိုပါသည်။

တစ်ဖန် "ကျေးလက်တောရွာတို့၏ ပန်းပုဆရာများ"ဟူသည်လည်း အခြားသူများမဟုတ်ပါ၊ တောရွာများတွင် ကျောင်းထိုင်တော်မူနေကြသော ရှေ့ဆောင်ဘုန်းတော်ကြီးများကို ဆိုလိုပါသည်၊ ယခုအခါ သာသနာတော်ကြီး၏ဝန်ကို အတွင်းသို့ဝင်၍ ထမ်းဆောင်နေသူတို့မှာ ယေဘုယျအားဖြင့် တောသားများ ဖြစ်ကြပါ၏၊ တောသားများသည် သာသနာတော်ကြီး၏ အမြစ် ပင်စည်တို့နှင့်တူကြသည်၊ အမြစ်ပင်စည်တို့ ခြောက်သွေ့လျှင် အခက် အလက် အရွက် အညွန့် အဖူးတို့ မဝေစည်နိုင်၊ သာသနာတော်ဥယျာဉ်ကြီး မလန်းဆန်းနိုင်ဘဲ ညှိုးနွမ်းဖွယ်ရာသာ ဖြစ်တော့မည်။

ဤအချက်များကို ဆရာတော် အရှင်ဇနကာဘိဝံသက သိမြင်ထား၍ အခြေခံကျသော ကျေးလက်ဒေသ၌ ပန်းပုဆရာကောင်းများ ရှိဖို့လိုအပ်ကြောင်းကို ခဏ ခဏ ညွှန်ပြနေခြင်း ဖြစ်လေသည်၊ အခြေခံသည် အရေးကြီး၏၊ အခြေခံ မခိုင်လျှင် အဖျားယိုင်မည်မှာ ဓမ္မတာတည်း။

## တောရွာများသို့ ကြွတော်မူခဲ့ကြပါ

ယခုအခါ အခြေခံဖြစ်သော တောရွာများတွင် နေရာတော်တော်များများ၌ ခေါင်းဆောင်အဖြစ် ကျောင်းထိုင်နေသူတို့မှာ တောထွက်ကိုယ်တော်ကြီးများ ဖြစ်နေတတ်ကြပါ၏၊ ထိုပုဂ္ဂိုလ်ကြီးတို့မှာ ပန်းပုပညာ ကောင်းစွာမတတ်သော ပန်းပုသမားများကဲ့သို့ ဖြစ်၍ သစ်ရိုင်းတုံးနှင့်တူသော တောသူတောင်သားတို့ကို လှပသောပုံစံဖြစ်အောင် မည်သို့ ထုလုပ်နိုင်ကြပါမည်နည်း၊ ဗုဒ္ဓဘာသာဆိုင်ရာ ယဉ်ကျေးမှု အသိပညာတို့ကို မည်သို့ပေးနိုင်ကြပါမည်နည်း။

အို- အရှင်ကောင်းတို့ ... သာသနာတော်ကြီး အရှည်ခံ့၍ တည်တံ့လိုပါလျှင် သာသနာတော်ကြီး လျှောသက်မည့်အရေးကို ဘဝင်မအေး ဖြစ်ကြပါလျှင် အရည်အချင်း ပြည့်ဝအောင်ဖြည့်၍ တောရွာများသို့ ကြွလာတော်မူကြပါကုန်လော့၊ မြို့မှာချည်း ခိုအောင်းမနေဘဲ တောရပ် တောရွာများတွင် အခြေခံကျကျ သာသနာပြုတော်မူကြပါကုန်လော့၊ ဘုရားကိုယ်တော်မြတ်လည်း တောရပ်ဒေသတွင် တစ်ရွာမှ တစ်ရွာ၊ တစ်နယ်မှတစ်နယ်သို့ကြွကာ ဒေသစာရီသာသနာပြုခရီး ကြွချီတော်မူခဲ့သည် မဟုတ်တုံလော။?

ဘုရားသာသနာတော်သည် အနှိုင်းအဆမရှိ၊ တန်ဖိုးကြီးမားလှ၏၊ အနည်းဆုံး လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်း ပါရမီဖြည့်မှ ပေါ်လာရပါသည်၊ ယင်းသာသနာကို အစဦးပိုင်းက မင်းညီမင်းသားများ၊ ပဒေသရာဇ် ဓနရာဇ်များ၊ သူဌေး သူကြွယ်များ၊ ဂုဏ်ရှိသိန်ရှိပုဂ္ဂိုလ်များကိုယ်တိုင် ဝင်ရောက်အမှုထမ်းဆောင်နေကြသဖြင့် အလွန်တင့်တယ် ကျက်သရေရှိခဲ့၏၊ မြင့်မားခဲ့၏၊ တောင်ထွတ်ကြီးပမာ မော်၍ကြည့်ခဲ့ကြရသည်။

ယခုအခါတွင် သာသနာအတွင်းသို့ အဆင်ခြင်ကင်းမဲ့သော တောထွက်ကြီးများ ရောက်လာကြ၏၊ တောရပ်ဒေသများ၌ မင်းမူနေကြခြင်း၊ မြို့မှာလည်း သီလ သမာဓိ ပညာနည်းပါးသော အချို့ပုဂ္ဂိုလ်များကြောင့် ဤသာသနာတော်ကြီးသည် အထက်တန်းပုဂ္ဂိုလ်တို့၏ အထင်အမြင်သေးခြင်းကို ခံရကာ ငုံ့ကြည့်ခံဘဝသို့ရောက်နေရတော့သည်၊ ဤအချက်ကိုလည်း ဆရာတော် အရှင်ဇနကာဘိဝံသက တိတိပပမြင်ထား၍ ကိုယ်ကျင့်သီလ ပြည့်ဝသည့် ရဟန်းကောင်းများဖြစ်ရန် သတိပေးထားပြန်သည်။

## အနာဂတ်သည် လူငယ်များလက်မှာရှိ

ပျိုးခင်းထောင်ရာကွင်းများကား တောလက်ကျေးရွာများသာတည်း၊ အမှန်စင်စစ်လည်း ဘုရားကိုယ်တော်မြတ်သည် တောမှာ ကျင့်၍ တောမှာ ပွင့်တော်မူခဲ့၏၊ ရတနာသုံးပါးလုံး တောမှာပင် ဖူး၍ တောမှာပင် ပွင့်ပြီးလျှင် တောမှာပင် စတင်လန်းဆန်းခဲ့ပါသည်၊ ထို့နောက်တွင်လည်း ရှင်တော်ဗုဒ္ဓသည် တောမှာပင် အစဉ်သီတင်းသုံး၍ တစ်ဘဝလုံး တောမှာ ပျော်တော်မူခဲ့၏၊ တပည့်သားတို့အားလည်း တောမှာပင် ခိုဝင် ချဉ်းကပ်ခြင်းကို ချီးမွမ်းတော်မူခဲ့သည်။

ဤသည့် အကြောင်းတို့ကို ထောက်တွေး၍ သာသနာရေး၌ စိတ်ဝင်စားကြသော ရဟန်းကောင်းတို့က တောသို့ ကြွ၍ သာသနာပြုတော်မူကြပါရန် ဆရာတော် အရှင်ဇနကာဘိဝံသက ပန်ကြားနေခြင်း ဖြစ်ပါသည်၊ ပန်ကြားရုံသာမက ကိုယ်တော်တိုင်လည်း အနာဂတ်ပိုင်ရှင် သာသနာ့ပျိုးပင်တို့ကို အစဉ်ပင် စိုက်ပျိုးကြိုးစားနေခြင်း၊ အများကိုလည်း ဟစ်အော် နှိုးဆော်နေခြင်း ဖြစ်ပါသတည်း။

ထို့ကြောင့် ဤအန္တရာယ်တို့ကို ကာကွယ်နိုင်ဖို့ရန်မှာ လောကီ လောကုတ္တရာ ခေတ်အသိအမြင်ကြွယ်ဝသော ရှေ့ဆောင်ရဟန်းကောင်းများ လိုအပ်နေပါပြီ၊ ဗုဒ္ဓရှင်တော်မြတ်၏ တရားတော်အစစ်အမှန်များ ထွန်းကားရန်မှာ ပညာထက်မြက်သော ရဟန်းတော်ကောင်းများ၏ တာဝန်တစ်ရပ်ပင် မဟုတ်ပါလော၊ ထိုကဲ့သို့သော ရဟန်းတော်များက အနာဂတ်သာသနာအတွက် သွေးအေး၍ မနေကြဘဲ ကြောင့်ကြောင့်ကြကြ ရှိတော်မူကြဖို့ အချိန်ရောက်နေပြီ။

"လူငယ်များသည် အနာဂတ်၏ အင်အား၊ အနာဂတ်သည်လည်း လူငယ်များ၏ လက်မှာရှိသည်"ဟူသကဲ့သို့ အနာဂတ်သာသနာ တည်တံ့ရေးအတွက် အစွမ်းထက်သော အရှင်များက ယခုနှယ်က ကြိုတင်၍ အနာဂတ်၏ပိုင်ရှင် သာသနာ့အညွန့် အညှောက်ကလေးများ ပေါက်ပွားအောင် ပျိုးထောင်ကြရမည် ဖြစ်ပါသည်။

## ရွှေကျင်ဂိုဏ်းအတွက် သီးခြားဝိနိစ္ဆယဌာန ကိုယ့်ဂိုဏ်းအတွင်း ကိုယ်ဖြေရှင်း

၁၃၂၂ ခုနှစ်တွင် ဝိနိစ္ဆယဌာနနှင့် ဝိနိစ္ဆယခုံအက်ဥပဒေကို စိစစ်ပြင်ဆင်ရန်အတွက် နိုင်ငံတော်အစိုးရသည် ဂိုဏ်းပေါင်းစုံ ဆရာတော်များနှင့် လူဒါယကာများ ပါဝင်သော ကော်မတီတစ်ရပ်ကို ဖွဲ့စည်းခဲ့ကြ၏၊ ထိုတွင် ရွှေကျင်ဂိုဏ်းမှ ရွှေကျင်နိကာယ ဥပဥက္ကဋ္ဌ မြောင်းမြဆရာတော်နှင့်ရန်ကုန်မြို့ ကျောက်ကုန်း မေဒိနီဆရာတော်တို့ကို ရွေးချယ်ထည့်သွင်းထားကြသည်၊ ထိုဆရာတော်နှစ်ပါးလုံး စကားနည်းတော်မူကြ၏၊ ထို့ကြောင့် ဆရာတော်အရှင်ဇနကာဘိဝံသကိုပါ ပါဝင်စေကြပါသည်။

ထိုကိစ္စတွင် ရွှေကျင်ဂိုဏ်းအတွက် သီးခြားဝိနိစ္ဆယဌာနဖြစ်ဖို့ ပြောဆိုကြရ၏၊ ဝိနိစ္ဆယဌာနဆိုသော်လည်း ရုံးတွေ ကနားတွေ ဖွင့်ရသောဌာနမျိုး မဟုတ်ပေ၊ ရွှေကျင်ဂိုဏ်းတွင် အမှုကိစ္စများ ပေါ်ပေါက်ခဲ့သော် ရွှေကျင်ဂိုဏ်းအတွင်းမှာပင် ရွှေကျင်ဆရာတော်ဘုရားကြီးများ၏ အထံတော်၌ အဆုံးအဖြတ်ခံဖို့ ဖြစ်၏၊ ထို့နောက် ယင်းဝိနိစ္ဆယအတွက် ပါဝင်ဆွေးနွေးဖို့ရန် ကော်မတီများ ရွေးရပြန်သောအခါ ရွှေကျင်ဂိုဏ်းမှ စစ်ကိုင်းတောင်ရိုး အနီးစခန်း ဆရာတော်နှင့်မန္တလေး ဝိသုဒ္ဓါရုံတိုက် ပိုက်ကျုံးဆရာတော်တို့ကို ရွေးချယ် စေလွှတ်ကြရ၏၊ ရန်ကုန်သို့ သွား၍ အစည်းအဝေးကြီးကို ရက်ရှည်အနားပေးသောအခါ ကိုယ်စားလှယ် ဆရာတော်နှစ်ပါးတို့သည် မန္တလေးသို့ ခေတ္တပြန်လာကြ၏၊ မန္တလေးသို့ ရောက်သောအခါ ရွှေကျင်ဂိုဏ်းတွင် တာဝန်ရှိသော ဆရာတော်များကို မန္တလေး မဟာဝိသုဒ္ဓါရုံတိုက်သို့ ပင့်၍ ရန်ကုန်အစည်းအဝေးကြီး၌ တွေ့ကြုံခဲ့ရသမျှ "အဘိဓဇမဟာရဋ္ဌဂုရု၊ ရွှေကျင်သာသနာပိုင် စံကင်း ဆရာတော်ဘုရားကြီး၏ ရှေ့မှောက်မှာ လျှောက်ထားကြပါသည်။

### ရွှေကျင်ဝိနိစ္ဆယစည်းမျဉ်းရေးဆွဲ

ထိုအခါ ရွှေကျင်ဂိုဏ်းအတွက် ရွှေကျင်ဂိုဏ်းက သဘောကျသော ဝိနိစ္ဆယစည်းမျဉ်းကို ရေးဖို့လိုလာသည်၊ မည်သူရေးမည်နည်း၊ မည်သူ့ကို ရေးစေသင့်သနည်း၊ တစ်ဂိုဏ်းလုံး၏သဘောထားကို ငုံမိအောင် ခြုံမိအောင် ရေးရမည့်အပြင် ဝိနည်းတော် ဘုရားဥပဒေနှင့်လည်း မလွတ်အောင် ရေးရမည်ဖြစ်၏၊ မတိမ်းမစောင်း လမ်းကြောင်းမှန်အောင် ရေးရမည်ဖြစ်သည်၊ "အရှင်ဘုရားရေးပါ" "ဆရာတော်ရေးပါ" "ကိုယ်တော် ရေးပါ"နှင့် တစ်ပါးအပေါ် တစ်ပါး လွှဲချနေကြ၏၊ နောက်ဆုံးတွင် "ဆရာတော်အရှင်ဇနကာဘိဝံသ ရေးပါ"ဟု သံဃာတော်အများက တညီတညွတ်တည်း ဝိုင်း၍ တာဝန်ပေးကြ၏၊ ထို့ကြောင့် ဝိနည်းပါဠိတော်ကြီးများ၊ အဋ္ဌကထာကြီးများကို ထောက်ပြ၍ စနစ်တကျ ရေးသား တင်ပြရတော့သည်၊ ယင်းစာတမ်းကို ဤစာအုပ်၌ စာမျက်နှာများ ပြီးဖြစ်၍ ချန်ထားခဲ့ရသည်။

## သာသနာတော်မှာ ငွေကြေးဟာ မြွေပွေးပမာ

### ငွေရှိလျှင် ဘာမဆို ဖြစ်နိုင်တယ်

ယခုခေတ် ပြောကြသောစကား ဖြစ်၏၊ ဟုတ်ပါသည်၊ ငွေရှိလျှင် ထိုငွေဖြင့် အစားအစာကို ဝယ်နိုင်၏၊ အဝတ်အထည်ကို ဝယ်နိုင်၏၊ အဆောက်အအုံကိုလည်း ဆောက်နိုင်၏၊ မိုးထိနီးပါးတိုက်ကြီးများကိုလည်း တည်နိုင်၏၊ ခေတ်အလျောက် ယာဉ်ရထား အစားစားကိုလည်း ပြီးစေနိုင်၏၊ လယ်ယာချောင်းမြောင်းတို့ကိုလည်း ရနိုင်၏၊ ကျွန်နွားဆင်မြင်းတို့ကိုလည်း ဖန်တီးနိုင်၏၊ ဆန်ရေစပါးတို့ကိုလည်း ပေါများစေနိုင်၏၊ ရတနာရွှေငွေတို့ကိုလည်း ဖြစ်စေနိုင်၏၊ စည်းစိမ်ချမ်းသာ ဟူသမျှကိုလည်း ဖန်တီးနိုင်၏၊ ဘာမဆို ဖြစ်နိုင်သည်။

ထို့ကြောင့် "ရူပိယံ သဗ္ဗတ္ထ သာဓကံ"ဟု ဆိုကြ၏၊ "ငွေဟာ ဘာမဆို အကုန်လုံး ကိစ္စကို ပြီးစေနိုင်၏"ဟု ဆိုလိုသည်။

### အရှင်ဥပနန္ဒ သူက စခဲ့သည်

ထို့ကြောင့် လက်ထဲမှာ ငွေစကလေးရှိလျှင် ပုထုဇဉ်သားတို့၏ နှလုံးသားမှာ လှုပ်ရှားနေတတ်၏၊ မတည်ငြိမ်တတ်၊ ဖောက်ပြန်တတ်၏၊ ပျက်စီးစေတတ်၏၊ ဤသဘောတို့ကို နှစ်နောကြေညက်နေအောင် သိတော်မူသောမြတ်စွာဘုရားသည် တပည့်သားတို့အား ဤကိစ္စအတွက် ဟန့်တား၍ စည်းရိုးကာရန်အချိန်ကို စောင့်ဆိုင်းနေတော်မူခဲ့သည်၊ မြတ်စွာဘုရားတို့ ဟန့်တားမိန့်မှတ် သိက္ခာပုဒ်ကို ပညတ်ရာ၌ ဆေးသမားကဲ့သို့ ဖြစ်၏၊ ဆေးသမားသည် အနာမပေါ်ခင် ဆေးမတင်ဘဲ အနာပေါ်မှသာ ဆေးတင်ကုသသကဲ့သို့ ထို့အတူ အကြောင်းကိစ္စပေါ်ပေါက်လာသော် ထိုကိစ္စကို အပြစ်ပြ၍ သိက္ခာပုဒ်ပညတ်တော်မူမြဲဖြစ်သည်၊ ထိုအချိန်တွင် အရှင်ဥပနန္ဒကိစ္စ ပွဲဦးထွက် ပေါ်လာလေတော့၏။

အရှင်ဥပနန္ဒသည် မြတ်စွာဘုရား၏ သာကီဝင်မင်းမျိုးမှ ထွက်၍ ရဟန်းပြုသူ ရှစ်သောင်းခန့်လောက် ရှိသည်တို့တွင် တစ်ပါး အပါအဝင်ဖြစ်၏၊ စကားပြောကောင်း၏၊ တရားဟောလည်း ကောင်း၏၊ ထို့ကြောင့် ကြည်ညိုသူ ဒါယကာ ဒါယိကာမ ပေါများသည်၊ သို့သော် စိတ်ဓာတ်ကား တည်ငြိမ်သူမဟုတ်ပေ၊ လှုပ်လှုပ်ခတ်၏၊ လိုချင် မက်မောလောဘဇောကြီးတတ်၏၊ သူ၏ အဟောအပြောကြောင့် သူ့ကို ကြည်ညိုသော အိမ်တစ်အိမ်က ဆွမ်းခံ အမြဲကြွရန် ပင့်ထားသည်၊ စားကောင်းသောက်ဖွယ် ဟူသမျှကိုလည်း သူ့အတွက် ဦးစားပေး၍ လှူမြဲဖြစ်သည်၊ ဟင်းကောင်းဟင်းမွန်ချက်လျှင်လည်း အရှင်ဥပနန္ဒအဖို့ ဦးဦးဖျားဖျား ခပ်၍ထားလေ့ရှိကြ၏။

## ငွေအသပြာအလှူခံခြင်း

တစ်နေ့သောညနေချမ်းအခါတွင် အမဲသားဟင်းချက်၍ မိသားစုများက ထမင်းစားကြ၏၊ အရှင်ဥပနန္ဒဖို့လည်း ခူးခပ်ပြီး ချန်ထားသည်၊ နံနက်ရောက်သောအခါ သားကလေးက အတင်းပူဆာသဖြင့် အရှင် ဥပနန္ဒအဖို့ထားသော ဟင်းကို ပေးလိုက်ရလေ၏၊ "အရှင် ဥပနန္ဒလာလျှင် တစ်ခုခုဝယ်၍ လှူလိုက်မည်"ဟူ၍လည်း စိတ်ကူးထားလေသည်၊ သို့နှင့် အရှင် ဥပနန္ဒကြွလာသောအခါ အိမ်ရှင်ယောက်ျားက "အရှင်ဘုရားဖို့ ညတုန်းက ဟင်းတော့ ခပ်၍ ချန်ထားတာပဲ, ဒါပေမယ့် မနက်စောစော သားငယ်က အတင်းပူဆာလို့ ပေးလိုက်ရတယ်ဘုရား"ဟု လျှောက်ထားပြီးလျှင် ငွေတစ်ကျပ်ကို ပြ၍ "ဤငွေဖြင့် ဘာကို အလိုရှိပါသလဲ, ဘာဟင်း ဝယ်လှူရပါမလဲ"ဟု လျှောက်ထားလေသည်။

ထိုအခါ အရှင်ဥပနန္ဒက "ဒကာ…အဲဒီငွေကိုငါ့ဖို့ လှူဒါန်းရန် ပိုင်းဖြတ်ပြီးပြီလား" "မှန်ပါ အရှင်ဘုရားအတွက် စွန့်လွှတ်လှူဒါန်းရန် ပိုင်းဖြတ်ထားပြီးပါပြီ" "ဒကာ…သည်လိုဆိုလျှင် ဟင်းကို ဝယ်မနေနဲ့, အဲဒီငွေကိုပဲ လှူလိုက်တော့"ဟု ပြော၍ ငွေကို ခံယူသွားလေသည်၊ အိမ်ရှင်ယောက်ျားလည်း အရှင်ဥပနန္ဒ ပြန်သွားပြီးနောက် "ရဟန်းတွေဟာ ပစ္စည်းကိုသာမက ငါတို့လိုပဲ ငွေကိုလည်း ခံယူကြတာပါပဲကလား"ဟု ပြစ်တင်ကဲ့ရဲ့လေရာ အခြားရဟန်းများကြား၍ ဘုရားကို လျှောက်ကြလေတော့သည်၊ ထို့ကြောင့် မြတ်စွာဘုရားက "ရဟန်းများငွေကို အလှူမခံရ, အလှူခံလျှင် နိဿဂ္ဂိထိုက်၍ ပါစိတ်အာပတ် သင့်စေ" ဟု သိက္ခာပုဒ်တစ်ရပ် ပညတ်တော်မူရလေသည်။

## သိက္ခာပုဒ်တော်

**ယော ပန ဘိက္ခု ဇာတရူပရဇတံ ဥဂ္ဂဏှေယျ ဝါ ဥဂ္ဂဏှာပေယျ ဝါ ဥပနိက္ခိတ္တံ ဝါ သာဒိယေယျ၊ နိဿဂ္ဂိယံ ပါစိတ္တိယံ။**

ရဟန်းဟူသည် ရွှေငွေကို (က) ကိုယ်တိုင်လည်း မခံယူရ, မကိုင်တွယ် မကောက်ယူရ၊ (ခ) ကပ္ပိယကျောင်းသား ဒါယကာစသူတို့အားလည်း ယူလိုက်ပါ, ယူခဲ့ပါဟု မခိုင်းရ၊ (ဂ) အလှူရှင်တို့က အဝေးအနီးမှာရှိသော ရွှေငွေကို ညွှန်ပြ၍ အပ်နှံလှူဒါန်းသည်ကိုလည်း (အလှူခံသောအားဖြင့်) စိတ်ထဲက မသာယာရ, လက်မခံရ၊ ဤသုံးချက်တွင် တစ်ချက်ချက်ကို ကျူးလွန်ပါက ဤသိက္ခာပုဒ်အရ ပစ္စည်းကို စွန့်ရ၍ ရဟန်းမှာလည်း ပါစိတ်အာပတ် သင့်ရလေသည်။

## အချုပ်အခြာပဓာနဖြစ်

ငါးပါးသီလသိက္ခာပုဒ်များတွင် သုရာမေရယသိက္ခာပုဒ်သည် အချုပ်အခြာဖြစ်၏၊ သုရာမေရယဖြင့် မူးယစ်မိပြီဆိုလျှင် ကျန်သောသိက္ခာပုဒ်များကိုလည်း လွယ်လွယ်ကူကူဖြင့် ကျူးလွန်ဖို့ရန် မခဲယဉ်းတော့သကဲ့သို့ ထို့အတူ ဤငွေကြေးနှင့်စပ်မိသောသိက္ခာပုဒ်လည်း အချုပ်အခြာပင်ဖြစ်သည်ဟု ဆိုရမည် ဖြစ်၏၊

အဘယ့်ကြောင့်ဆိုသော် လက်ထဲမှာ ရွှေစငွေစကလေးများ ရှိလာပြီဆိုလျှင် ထိုပုဂ္ဂိုလ်သည် တည်ငြိမ်မှု မရနိုင်, သမာဓိ မဖြစ်နိုင်ဘဲ ယိုင်ယိုင်ယိမ်းယိမ်း မထိန်းသိမ်းနိုင်သော အခြေအနေသို့ ရောက်လာတတ်၏၊ ထိုအခါ ပျက်စီးဖို့ လမ်းစရလာခြင်း ဖြစ်တော့သည်။

ထို့ကြောင့်ပင် မြတ်စွာဘုရားက ရွှေငွေတို့ကို ခံယူခြင်းမှ ဟန့်တားခြင်း, ခံယူခိုင်းသည်ကိုလည်း ပိတ်ပင်ခြင်း, လှူဒါန်းလာသည်ကိုလည်း စိတ်ထဲမှာ လက်ခံမထားရ, ပယ်မြစ်ခြင်း ပြုရမည်ဟု ဥပဒေတစ်ရပ်ဖြင့် မိန့်မှတ်ထားခြင်း ဖြစ်ပေသည်။

တစ်နေရာမှာဆိုလျှင် ဤရွှေငွေကို ရဟန်းများအတွက် ကာမဂုဏ်ငါးပါးနှင့် တစ်တန်းတည်း ထား၍ပင် ဟောတော်မူ၏၊ *"ရဟန်းတို့ ...သင်တို့မှာ ရွှေငွေကို အပ်စပ်သည်ဆိုလျှင် ကာမဂုဏ်ငါးပါးကိုလည်း(မိန်းမလည်း) အပ်စပ်တော့မှာပေါ့"ဟူ၍ပင် မိန့်တော်မူ၏၊ ဆိုလိုသည်မှာ ရဟန်းများ၌ ကာမဂုဏ်ငါးပါး(မိန်းမများ) မအပ်စပ်၊ ထို့ကြောင့် ရွှေငွေများလည်း မအပ်စပ်ဟု ဆိုလိုသည်၊ ရွှေငွေများ အပ်စပ်သည်ဆိုလျှင် ကာမဂုဏ်ငါးပါး(မိန်းမများ) လည်း အပ်စပ်သည်ဟု ဆိုရတော့မည်၊ ဤသို့ ဟောတော်မူလိုရင်းဖြစ်၏။

ငွေကြေးနှင့်သာသနာ ဤမျှလောက် မအပ်မရာဖြစ်ကြောင်း, ဤမျှလောက် အပြစ်ကြီးကြောင်း မြွေပွေးပမာဖြစ်ကြောင်းကို တိတိပပ ဟောပြထားသည်ကို ဆင်ခြင်၍ အရှင်ဇနကာဘိဝံသ ဆရာတော်သည် မိမိပြုလိုသော သာသနာကို ငွေကြေးနှင့် လွတ်ကင်းအောင် ဘယ်သို့ စီမံရမည်နည်းဟု စဉ်းစားရတော့၏။

## ငွေမဟုတ်ဘူး, မြွေ-မြွေတဲ့



သာဝတ္ထိမြို့ပြင်ဘက်နားက လယ်ကွက်ထဲတွင် နံနက်စောစော ဝေလီဝေလင်းချိန်၌ လယ်သမားတစ်ယောက် လယ်ထွန်ရန် ပြင်ဆင်နေသည်၊ ယနေ့ နံနက်စောစော၌ ကယ်ချွတ်ရမည့် ဝေနေယျတို့ကို ကြည့်တော်မူရာတွင် ထိုလယ်သမား၏ သောတာပန်ဖြစ်နိုင်ပုံကိုလည်းကောင်း, အသက်အန္တရာယ်စိုးရိမ်ဖွယ်ရာကိုလည်းကောင်း မြတ်စွာဘုရား မြင်တော်မူလေသည်၊ ထို့ကြောင့် အသက်ကို ကယ်ဆယ်နိုင်ရန် အရှင်အာနန္ဒာကို အဖော်ခေါ်၍ ထိုလယ်တောသို့ ကြွတော်မူလေ၏၊ လယ်သမားလည်း မကြွစဖူး အကြွထူးနေသော မြတ်စွာဘုရားနှင့်အရှင်အာနန္ဒာကို အံ့အားသင့်စွာ လက်အုပ်ချီမိုး ရှိခိုးလိုက်သည်။

ယမန်နေ့ညတုန်းက ခိုးသူတစ်စုတို့သည် မြို့တွင်းမှ ပစ္စည်းဥစ္စာ ရတနာတို့ကို ခိုးယူလာကြ၍ ထိုလယ်တော တစ်နေရာတွင် ဝေစုခွဲကြကုန်၏၊ ညမှောင်မည်းမည်းတွင် ငွေတစ်ထောင်ထုတ်တစ်ခု မဝေမိဘဲ ကျန်ရစ်ခဲ့ကြသည်။

ထိုနေရာ အနီးသို့ မြတ်စွာဘုရား ကြွသွား၍ လက်ညှိုးညွှန်တော်မူကာ "မြင်ရဲ့လား အာနန္ဒာ, အဆိပ်ထန်တဲ့ မြွေကြီး"ဟု မိန့်တော်မူရာ "မြင်ပါသည်အရှင်ဘုရား, အဆိပ်ထန်တဲ့ မြွေကြီး"ဟု ဖြေတော်မူလေ၏၊ ထို့နောက် ညီနောင်နှစ်ပါး ပြန်ကြွသွားကြသည်။

လယ်သမားလည်း "ငါ့လယ်ထဲမှာ ရှိနေတဲ့ မြွေကြီးကို တော်ရာသွားအောင် ဖယ်ရှားပစ်မည်" စိတ်ကူးဖြင့် သွားရာ ငွေထုပ်ကြီး ဖြစ်နေသည်ကို တွေ့ရ၏၊ သို့ဖြစ်၍ လောဘရမ္မက် အစွယ်ထွက်ကာ ငွေထုတ်ကြီးကို ယူပြီးလျှင် တစ်နေရာတွင် ရွှေ့၍

---

* ဓမ္မပဒ ဋ္ဌ-ပ, ကဿကဝတ္ထု-၃၀၄၊

ဝှက်တော့၏၊ ပစ္စည်းရှင်တို့က ခြေရာခံ၍ လိုက်လာကြရာ ဝှက်ထားသော ငွေထုပ်ကြီးကို တွေ့သွားကြသည်၊ သို့ဖြစ်၍ အနီးတွင်ရှိသော လယ်သမားကို ဖမ်းကာ နန်းတော်သို့ ပို့ကြတော့၏။

ဘုရင်က သေမိန့်ချသည့်အတွက် ရိုက်နှက်ခေါ်သွားရာ နာကျင်လွန်းလှသဖြင့် ထိုလယ်သမားက "ဒါကြောင့် မြတ်စွာဘုရားနှင့်အရှင်အာနန္ဒာက ပြောကြတာကိုး, အဆိပ်ထန်တဲ့ မြွေကြီး, အဆိပ်ထန်တဲ့ မြွေကြီး"တဲ့။

ဤသို့ ထပ်တလဲလဲ ညည်းတွားနေမှ နန်းတော်သို့ ပြန်ပို့ရာ အသက်ချမ်းသာရာ ရလေ၏၊ ဤသို့လျှင် မြတ်စွာဘုရားက "ငွေမဟုတ်ဘူး, မြွေ-မြွေ"တဲ့၊ ဤငွေသည် မြင်သူတိုင်းအား လောကရမ္မက် အဆိပ်တက်စေသည်၊ ယခု လယ်သမားကို အဆိပ်တက်စေ၍ မြွေကြီးသဖွယ် ပြန်၍ ပေါက်လေပြီ၊ ပုထုဇဉ်သား မှန်သမျှကို ဒုက္ခပေးနိုင်၏။

## အခြေအနေကို သုံးသပ်ဆင်ခြင်ခြင်း

### အလိုတော်ကျ ကေန်မဖြစ်

ယခုအခါတွင် မိဘနှင့် ဝေးကွာ၍ မြို့ကြီး မြို့ကလေးများသို့ စာသင်ထွက်လာသူတိုင်း စားဝတ်နေရေးအတွက် မရေရာသောကြောင့် ငွေမပါလျှင် မပြီးသလောက် ဖြစ်နေကြ၏၊ ငွေကို ခံယူသည်ကစ၍ ဝိနည်းတော်အရ နိဿဂ္ဂိပါစိတ်အာပတ်သင့်တော့၏၊ ငွေကို ကိုင်တိုင်း ကိုင်တိုင်း ဒုက္ကဋ်အာပတ်တွေ အပြည့်အကျပ် ထပ်၍ ထပ်၍ သင့်ပြန်၏၊ ထိုငွေဖြင့် ဝယ်၍ စားသောက် သုံးစွဲသဖြင့် စားဖွယ်သုံးဖွယ်တွေလည်း နိဿဂ္ဂိပစ္စည်း ဖြစ်ကြ၏၊ မစွန့်သမျှကာလပတ်လုံး နိဿဂ္ဂိအာပတ်နှင့် စားတိုင်း သုံးတိုင်း ဒုက္ကဋ်အာပတ်တွေ မရေမတွက်နိုင်အောင် ဖြစ်၍ နေ၏၊ ထိုပစ္စည်းကို အခြား ပုဂ္ဂိုလ်များသုံးစွဲလျှင်လည်း ထိုအတိုင်းပင် အာပတ်တွေ ဗရပွေသင့်ကြ၏၊ ဤသို့လျှင် မိဘနှင့်ဝေးကွာနေသော စာသင်တိုက်များဝယ် ငွေမပါလျှင် မပြီးနိုင်သောကြောင့် အာပတ်အပြစ်တွေ များကြရလေသည်။

ဗုဒ္ဓရှင်တော်မြတ်၏ တရားတော်တွေကို သင်ယူနေကြရပါသော်လည်း ဗုဒ္ဓရှင်တော်မြတ် တားမြစ်ထားသော အပြစ်တွေ နေ့ရှိသမျှ ကျူးလွန်နေရပါလျှင် ဗုဒ္ဓအလိုတော်ကျနိုင်ပါမည်လော၊ အဘယ်မှာလျှင် ဗုဒ္ဓအလိုတော်ကျ ဖြစ်နိုင်ပါတော့မည်နည်း၊ ဗုဒ္ဓအလိုတော်မကျမှန်း သိပါလျက် ဆက်လက်ပြုလုပ်နေပါလျှင်လည်း အဘယ်မှာ သံသရာအကျိုးရပါတော့မည်နည်း။

### သာသနာ၌ မပျော်နိုင်

ထိုကဲ့သို့ မလွဲသာဘဲ အပြစ်များကို ကျူးလွန်ခဲ့ရသော စာတတ်ပုဂ္ဂိုလ်တို့သည် အဘယ်မှာ သာသနာတော်၌ တရားနှင့် ပျော်ပိုက်နိုင်တော့မည်နည်း၊ တစ်နည်းအားဖြင့် စဉ်းစားရသော် သူဆရာဖြစ်လာသောအခါ၌လည်း တပည့်ပရိသတ်များကို တော်သလိုသာ အုပ်ချုပ်ပေတော့မည်။

သို့ဖြစ်လျှင် မြန်မာနိုင်ငံသာသနာသည် အဘယ်မှာ ကိုယ်ကျင့်ဘက်က တိုးတက်နိုင်ပါတော့မည်နည်း၊ လျော်ရင်း နစ်ရသော လှေသဖွယ် မြုပ်ကွယ်ဖို့ အချက်သာ များတော့မည် မဟုတ်ပါလော၊ အုပ်ချုပ်သော ဆရာတော်တို့လည်း ထိုအပြစ်တို့ကို မြင်တော်မူကြပေမည်၊ သို့သော် မိမိတို့ကိုယ်တိုင်က ဆွမ်းမကျွေးနိုင်သော တပည့်ကလေးတွေကို "ငွေနှင့်ဝယ်၍ မစားကြနှင့်၊ အငတ် နေကြ"ဟု ဆိုရက်ကြမည်လော၊ ထိုသို့ မဆိုရက်သဖြင့်သာ အောင့်သက်သက်နှင့် ကြည့်နေကြရ, ကြည့်လာခဲ့ကြရပေသည်။

ဤအခြေအနေများကြောင့် ယခုအခါ စာသင်တိုက်များ၏ ကျင့်သုံးနေရပုံမှာလည်း အကျင့်သိက္ခာပရိယတ်ကို အားပေးခြင်းထက် စာပေတတ်ကျွမ်းမှုပရိယတ်လောက်ကိုသာ အားပေးခြင်းက များသကဲ့သို့ ဖြစ်နေရပါ၏။

ရှင်းပြပါဦးအံ့၊ ယခုအခါ စာသင်တိုက်များသည် မြို့ကြီးများ၌သာ တည်ရှိနေကြ၏၊ စာသင်သားများကား ကျေးလက်တောရွာများမှ လာရောက်နေကြသူများ ဖြစ်ကြ၏၊ စာသင်တိုက်များ၌ သံဃာအရေအတွက်လည်း များပြားလှ၏၊ ထိုမျှလောက် များပြားနေသော စာသင်သားတွေကို အုပ်ချုပ်သော ဆရာတော်က ဆွမ်းကွမ်းစသည် လုံလောက်အောင် ကျွေးနိုင်ဖို့ မလွယ်ကူလှချေ၊ သို့အတွက် သူတို့၏ စားဝတ်နေရေးမှာ "သူတို့ထိုက်နှင့်သူတို့ကံ"ဟု မမြင်ဟန်ဆောင်နေရမည့် အခြေအနေတွင် ရှိနေ၏။

## အစကတည်းက ယဉ်သကိုဗျ

ထို့ကြောင့် ရဟန်းငယ် ရှင်ငယ်တစ်ပါးသည် "စာသင်သွားမည်"ဟု ကြံစည်လိုက်လျှင်ပင် (စာသင်တိုက်များ၏ အခြေအနေကို ကိုယ်တွေ့ကြုံပြီး, ရှေ့က စာသင်သားကြီးများထံမှ တစ်ဆင့်စကားသတင်းကြားဖြင့်) ဆွမ်းရေးကို စဉ်းစားကြရတော့၏၊ ထိုအခါ ပေါ့ပေါ့ပါးပါး ယူသွားနိုင်ဖို့ရာ "သိက္ခာပုဒ်ဖြင့် အတင်းအကျပ် တားမြစ်ထားအပ်သော "ငွေကိုပင် ရှာကြံစုဆောင်းကြရလေတော့၏၊ ဤသည်ပင်လျှင် "စကတည်းက ယဉ်သကိုဗျ" ဖြစ်နေကြရတော့၏၊ မြန်မာပြည် စာသင်သားဘဝ အခြေအနေကား ရင်လေးဖွယ်သာတည်း၊ မည်သို့ ပြုပြင်ကြမည်နည်း။

ဤသို့လျှင် ငွေကို ရှာကြံစုဆောင်း ရရှိပြီးနောက် ငွေကို ကိုင်မည့် ကပ္ပိယကျောင်းသား ခေါ်သွားဖို့ရာလည်း နေထိုင်ရေး စားသောက်ရေးမှစ၍ တာဝန်လေးမည်ဖြစ်သောကြောင့် ခေါ်ဖို့ခဲယဉ်း၏၊ သို့ဖြစ်လျှင် ကိုယ့်ဝန်ကိုယ်ထမ်း ကိုယ့်လမ်း ကိုယ်သွားဖို့ရာ ထိုငွေကို ကိုယ့်သေတ္တာထဲ ထည့်ကာ သိက္ခာပုဒ်တော်ကို ရိုသေပါလျက် မတတ်သာ၍ ငွေကိုလည်း ကိုင်မိရှာကြပါတော့၏၊ ပထမသော် ငွေမကိုင်ကောင်းမှန်း သိလျက် မလွှဲသာ၍ ရွံ့တွံ့တွံ့နှင့် ကိုင်မိရှာ၏၊ အတော်ကြာသောအခါ "မကိုင်ကောင်းဘူး" ဆိုသည့်စိတ်များ မေ့ပျောက်သွားပြီးလျှင် ကိုင်ရိုးကိုင်စဉ်ကဲ့သို့ ရဲရဲတင်းတင်းကြီး ကိုင်လာလေ၏။

ထို့ပြင်လည်း မြို့ကြီးပြကြီးရောက်စ၌ ပထမသော် ဆွမ်းဆိုင်စသည်မှာ ကိုယ်တိုင်ဝယ်၍ မစားဝံ့ကြ၊ ရှက်သလို ရွံ့သလို ဖြစ်နေရသေး၏၊ အတော်အသားကျသည့်အခါ "ဒီလို ဝယ်စားရတာဟာ စာသင်သားတိုင်း မလွှဲသာသော ဓမ္မတာအလုပ်ပေတည်း"ဟု ထင်လာ၏၊ ထို့နောက်တွင်ကား ဈေးဆိုင်ဟူသမျှသို့ သွားရဲ လာရဲ ဝယ်ရဲ ခြမ်းရဲ ဖြစ်လာတော့၏၊ ဈေးဆစ်ရဲ ဖြစ်လာတော့၏၊ ဤသို့လျှင် အကျင့်သိက္ခာ ဝိနည်းမပါဘဲ စာတတ်လာခြင်းတို့ကား ဘဝသံသရာမှာ အားမကိုးလောက်ပေ။

## ဗေဒင်သုံးပုံတတ်နေပေမယ့်

ငါးရာငါးဆယ်ဇာတ်တော်များ၌ ဥဒ္ဒါလရသေ့ကြီးသည် ဗေဒင်သုံးပုံ တစ်ဖက်ကမ်းခတ် တတ်မြောက်၏၊ တပည့်ပရိသတ်ပေါင်းများစွာနှင့် အကြီးအမှူး ဦးစီးနာယက ဂဏပါမောက္ခလည်း ဖြစ်၏၊ ထိုစဉ်က ဘုရားလောင်းသည် ရှင်ဘုရင်၏ ပုရောဟိတ်ရာထူးဖြင့် အမှုထမ်းလျက်ရှိသည်၊ ဘုရားလောင်းသည် ပညာဉာဏ်ဖြင့် ဆင်ခြင်၍ အရာရာတွင် စိစိစစ်စစ်ရှိ၏၊ တစ်နေ့တွင် ရသေ့ကြီးနှင့် ဆုံမိ၍ စကားပြောကြရာ ဘုရားလောင်း ပုရောဟိတ်ကြီးက...

*** သဟဿဝေဒါပိ တံ အဓိစ္စ,**
**ဒုက္ခာ န ပမောစယေ စရဏံ အပတ္တာ၊**
**နှ စ ဝေဒါ အဖလာ ဟောန္တိ,**
**ကိတ္တိဉ္စ ပပ္ပောတိ တံ အဓိစ္စ။**

ဟု ပြောပါသည်၊ (ဤ၌ ကိုယ်ကျင့်တရားကို စရဏဟု ခေါ်၏၊ ဆိုလိုရင်းမှာ)...

**ပုရောဟိတ်။** ။"ဗေဒင်သုံးပုံမကလို့ အပုံတစ်ထောင်လောက်တတ်နေပေမယ့် (အဲဒီ ဗေဒင်ကို အစွဲပြုပြီး အဲဒီ ဗေဒင်တတ်ခြင်းကြောင့်

---

* ဇာတကပါဠိ (ပကိဏ္ဏက) ၂၈၃၊ အဋ္ဌကထာ ၂၉၆။

မှတ်ချက်။ ။ဗြာဟ္မဏတို့အတွက် ဗေဒင်သုံးပုံဟူသည် ဗုဒ္ဓဘာသာဝင်တို့အတွက် ပိဋကတ်သုံးပုံကဲ့သို့ အလွန် လေးစားအပ်သော ပညာရပ်ဖြစ်ပေသည်။

အဲဒီ ပေဒင် တတ်နေရုံနှင့်) ကိုယ်ကျင့် စရဏ မပါရင်တော့ ဒုက္ခမှ မလွတ်မြောက်နိုင်ပါဘူး။

**ရသေ့ကြီး။** ။ ဒီလိုဆိုရင် ပေဒင်တွေဟာ အကျိုးမပြီး အချည်းနှီးဟု ဆိုလိုပါသလား။

**ပုရောဟိတ်။** ။ ပေဒင်တွေဟာ အချည်းနှီးလို့တော့ မဆိုလိုပါဘူး၊ ပေဒင် တတ်တော့ "ပေဒင်ပညာရှိကြီး" လို့ နာမည်ကျော်တာပေါ့၊ လာဘ်လာဘပေါပြီး အခြေအရံများတာပေါ့၊ အဲ... ဘယ်လောက်ပင် နာမည် ကျော်ကြား၍ လာဘ်လာဘ ပေါများသော်လဲ ဒီတစ်ဘဝစာသာ ဖြစ်ပါတယ်၊ ဒီတစ်ဘဝသာ နာမည်ကျော်နိုင်၊ လာဘ်လာဘပေါနိုင်မှာပေါ့၊ တမလွန်အတွက် အားမကိုးလောက်ပါဘူး။အမှန်ကတော့ ကိုယ်ကျင့်စရဏကျင့်ပါမှသာ နောက်နောင်အခါ ဘဝသံသရာ၌ အေးချမ်းမှုကို ရရှိနိုင်ပါမယ်"ဟူသော အဓိပ္ပာယ်ကို ပြောလေသည်။

**မှတ်ချက်။** ။ ဤနေရာ၌ ပေဒင်အစား ပိဋကတ်ကို ပြောင်းထည့်၍ "ပိဋကတ်သုံးပုံမကလို့ အပုံတစ်ထောင်လောက် တတ်နေပေမယ့် ကိုယ်ကျင့်စရဏ မပါလျှင်တော့ ဒုက္ခမှ မလွတ်နိုင်သေးပါဘူး"ဟု သတိပြုသင့်ရတော့သည်။

## ဖြိုက်ဖြိုက်ဖြိုက်ဖြိုက် ပျော်ပိုက်နိုင်ဖို့

ဤသို့လျှင် ဤဇာတ်တော်၌ ဘုရားလောင်း ပုရောဟိတ်ကြီး၏ စကားသည် ယခုအခါ စာပြန်ပွဲအောင်မှုတစ်ခုကိုသာ အဓိကထား၍ ကြိုးစားကြသူ ဟူဟူသမျှတို့အတွက် သတိပေးသလို ဖြစ်နေတော့၏၊ မှန်လည်း အမှန်ဖြစ်နေ၏၊ ထို့ကြောင့် တိမ်းပါးချွတ်ချော်ခဲ့သမျှ လမ်းတို့ကို ပြင်ရမည်၊ မပြင်၍ မဖြစ်ပါ၊ ဤသို့လျှင် ဆရာတော်အရှင်ဇနကာဘိဝံသ စဉ်းစားနေသည်၊ အနာမသိခင်က ဆေးမရှိသော်လည်း အနာသိလာသောအခါ ဆေးရှိရမည်သာတည်း၊ ယခု ဖြစ်ပျက်နေကြသည်ကား အစကတည်းက ငွေတွေနှင့် ဗရပွေကိစ္စကို ရှင်းမရအောင် ဖြစ်နေကြသည်၊ ဤအရေးကို ဦးစားပေး၍ စဉ်းစားရတော့သည်။

စာသင်သားများအတွက် ငွေမပါဘဲ ဖြစ်နိုင်အောင်ဆိုလျှင် အုပ်ချုပ်သောဆရာတော်က သူတို့အတွက် စားသောက်ရေး လုံလောက်အောင် ကျွေးနိုင်မှ, ဝတ်ဖို့ သင်္ကန်းကိုလည်း လုံလောက်အောင် ပေးနိုင်မှ, ကျန်းမာရေးကိုလည်း တာဝန်ယူနိုင်မှ ဖြစ်တော့မည်၊ ဤသို့ စားဝတ်နေရေး အထိုက်အလျောက် ပြည့်စုံအောင် စီစဉ်ပေးနိုင်ပါလျှင် ငွေဖြင့် ရင်းနှီးရသော ကိစ္စများ အတော်နည်းပါးသွားဖွယ်ရှိသည်။

ဤသို့ အကုသိုလ် နည်းနိုင်သမျှ နည်းစေ၍, ဝိနည်းပြစ် ကင်းနိုင်သမျှ ကင်းစေ၍ ပညာသင်နိုင်ခဲ့သူတို့သာ အရာရာ၌ အချိုးကျလျက် နောင်အခါတွင်လည်း သာသနာတော်၌ ဖြိုက်ဖြိုက်ဖြိုက်ဖြိုက် ပျော်ပိုက်နိုင်ပေမည်။

ထိုပုဂ္ဂိုလ်မျိုး စာတတ်လာလျှင် မိမိပရိသတ်ကို အချိုးကျအောင် ပြုပြင်လိုသော မျိုးစေ့ဓာတ်ခံလည်း ပါသွားကြပေလိမ့်မည်။

ယခုခေတ် "အအုပ်အချုပ် ကောင်းသည်" ဆိုသော ဆရာတော်များသည် ထိုဓာတ်ခံပါလာသော ဆရာကောင်းများ၏ တပည့်ကောင်းများချည်း သာ ဖြစ်ကြ၏။

ထို့ကြောင့် ဤနည်းဖြင့် ပြုပြင် စခန်းသွားကြမှသာ, တစ်နိုင်ငံလုံးရှိ စာသင်တိုက်အားလုံး စားဝတ်နေရေး အခြေခံမူစနစ်ကြီးကို ပြုပြင်ပြောင်းလွဲသွားကြမှသာ မြန်မာပြည်သာသနာ ပြန်လည်တိုးတက်ရန် အခွင့်အလမ်း မြင်တော့သည်၊ ဤသို့ စဉ်းစားထားတော်မူ၏။

## ရဟန်းတော်များနှင့်ငွေကြေးကိစ္စများ
## "ဝိနည်းကိစ္စ သင်ပြကောင်း၏"

"တပည့်တော် ဖိုးဇာဂရထံ ၅ဝ တန် အပ်စပ်သော ပစ္စည်းကို အလိုရှိသောအခါ တောင်းတော်မူပါအရှင်ဘုရား, လှူဒါန်းရာအရပ်ကိုလည်း ညွှန်ပြတော်မူပါအရှင်ဘုရား"...

အသက် ၁၂ နှစ်ခန့် ဝတ်ဖြူစင်ကြယ်ဝတ် "ဖိုးဇာဂရ" အမည်ရှိသော ဖိုးသူတော်ကလေး ဖြူဖြူဖွေးက အသံကလေး စာစာဖြင့် စာချဘုန်းကြီး တစ်ပါးအား အထက်ပါအတိုင်း လျှောက်ထား၍ ဦးချပြန်သွားသည်ကို "ဘာလုပ်တာလဲ"တဲ့၊ ရွှေဘိုနယ်က ဒါယကာကြီးတစ်ယောက်က မေးသည်၊ မေးလည်း မေးလောက်စရာဖြစ်၏၊ သူမတွေ့ဖူးချေ။

ဟုတ်ပါသည်၊ ထိုဒါယကာကြီးသည် အလွန်ရိုးသားသူဖြစ်၏၊ လယ်ယာကိုင်းကျွန်းအလုပ်ကိုသာ သူကျွမ်းကျင်သည်၊ ဝိနည်းလုပ်ငန်းကိစ္စများကို သူနားမလည်ပါ၊ နားလည်အောင် လေ့လာဖို့လည်း သူ့မှာ အချိန်မရပါ။

ယခု သူ့သား ဦးပဥ္စင်း စာချဘုန်းကြီးတစ်ပါး ရှိနေ၍ အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်သို့ အလည် ရောက်လာခြင်း ဖြစ်၏၊ ရောက်လာခိုက်တွင် သားဘုန်းကြီးအား လိုရာအသုံး ပြုနိုင်ရန် ငွေလှူမည်ဟု စိတ်ကူးလာခဲ့သည်၊ ဒါယကာကြီး၏ အမေးကို သားဘုန်းကြီးက နားလည်အောင် ရှင်းပြရတော့၏။

(မသိ၍ မေးလျှင် သော်လည်းကောင်း, သိထားဖို့ လိုအပ်သဖြင့် ကြိုတင်၍သော်လည်းကောင်း သင်ပြကောင်း၏၊ ရှင်းပြကောင်း၏။)

## "ဝိနယော စ သုသိက္ခိတော"

"ဒီလို ဒကာကြီးရဲ့...ဘုန်းကြီးရဟန်းများမှာ ရွှေငွေကို အလှူ မခံကောင်းဘူး, အလှူ မခံရဘူး, ကိုယ့်ရဲ့ကိုယ်စား သူများကိုလည်း အလှူမခံခိုင်းကောင်းဘူး, ပြီးတော့ လက်နှင့်မကိုင်ပေမယ့် အနားမှာ ချထားပြီး လှူတာကိုလည်း စိတ်ထဲက ကျေနပ်လက်ခံမထားရဘူး၊ ဒါပေမယ့် အခွင့်အရေးတစ်ခုတော့ ရှိတယ်၊ ဘာလဲဆိုရင် ငွေကို အကိုင်မခံ မယူကောင်း, မသိမ်းကောင်းပေမယ့် အဲဒီငွေမှ ဖြစ်ပေါ်လာတဲ့ ပစ္စည်းကိုတော့ အလှူခံကောင်းတယ်, သုံးစွဲကောင်းတယ်။

ဒါကြောင့် တစ်ဦးတစ်ယောက်က ကပ္ပိယထံ လွှဲအပ်ပြီး ငွေကို လှူလိုက်ရင် အဲဒီ ကပ္ပိယက အခုနတုန်းကလို "အပ်စပ်တဲ့ ပစ္စည်းကို အလိုရှိတဲ့အခါ တောင်းတော်မူပါ"လို့ လျှောက်ရတယ်၊ လျှောက်လို့ရှိရင် တောင်းကောင်းတယ်, လျှောက်မှလဲ တောင်းကောင်းတယ်၊ တောင်းတဲ့အခါ အလှူခံတဲ့အခါ အပ်စပ်တဲ့ ပစ္စည်းကိုသာ အလှူခံခွင့် ရှိတယ်၊ ငွေကိုတော့ ဘယ်နည်းနှင့်မှ အလှူခံခွင့် မရှိ, တောင်းခွင့်မရှိဘူး၊ ဒီကိစ္စလေးတွေကို ဒကာကြီးတို့က နားလည်ထားရမယ်၊ ဒါဟာ "ဝိနယော စ သုသိက္ခိတော" ဝိနည်းကိုလဲ သင်ထားရမယ်ဆိုတဲ့ မင်္ဂလာတစ်ပါးပေါ့။"

"ဒါဖြင့်ရင် တပည့်တော်ကလဲ ဦးပဥ္စင်းကို ငွေလှူမယ်လို့ စိတ်ကူးလာတာ တပည့်တော်ကလဲ ခုနတုန်းက ဖိုးသူတော်ကလေးလို လျှောက်ရမှာပဲလားဘုရား" ဒါယကာကြီးက သားဘုန်းကြီးအား မေးမြန်းသည်။

"ဟုတ်တယ် ဒကာကြီး, ဒကာကြီးကျတော့ စကားတစ်ပိုဒ်တောင် တိုးထည့်ရဦးမယ်၊ ဘာလို့လဲဆိုတော့ ဒကာကြီးက ဦးပဥ္စင်းအနားမှာ အမြဲရှိမှာမဟုတ်ဘူး၊ ဒီတော့ ဒီငွေကို ထိန်းထားမည့်သူ "ကပ္ပိယကိုလည်း ညွှန်းပါ"လို့ လျှောက်ရဦးမယ်။

ကဲ အပြည့်အစုံ ဒီလို မှတ်ပါ။"

"ဒကာကြီးက ဘယ်လောက်လှူမယ် စိတ်ကူးထားသလဲ?"

"တပည့်တော်က ၁၀ဝ လှူမယ် စိတ်ကူးထားတယ်ဘုရား"

"ကဲ ဒီလိုဆိုရင် ဒီလို လျှောက်ရတယ်"

### အပ်စပ်အောင်လျှောက်ထားပုံ

၁။ တပည့်တော်ထံ ၁၀၀ိ တန် အပ်စပ်သောပစ္စည်းကို အလိုရှိသောအခါ အလှူခံတော်မူပါဘုရား။
၂။ ကပ္ပိယကာရကကိုလည်း ညွှန်ပြတော်မူပါဘုရား။
၃။ လုံခြုံရာအရပ်ကိုလည်း ညွှန်ပြတော်မူပါဘုရား။

အဲဒီအခါမှာ ဦးပဥ္စင်းက ဖိုးသူတော်ကလေးကို ကပ္ပိယကာရကအဖြစ် ညွှန်းမယ်၊ အဲဒီငွေကို ဖိုးသူတော်ကလေးက် ဆက်လက်ထိန်းသိမ်းသွားလိမ့်မယ်၊ ထိန်းတဲ့အပြင် ဖိုးသူတော်ကလေးက စောစောတုန်းကလို တောင်းကောင်းသွားအောင် ထပ်ပြီး လျှောက်ရလိမ့်ဦးမယ်"

ဤသို့လျှင် သားအဖနှစ်ယောက် ဝိနည်းကြောင်းကိစ္စကို နားလည်အောင် ရှင်းပြနေသည်မှာ စိတ်ဝင်စားဖွယ်ကောင်းတော့၏။

သာသနာပြုလိုသော ဒါယကာ ဒါယိကာမတို့သည်ငွေရေးကြေးရေးကိစ္စနှင့်ပတ်သက်၍ လှူဒါန်းမှုကြုံလာလျှင် ပီပီပြင်ပြင် နားလည်ဖို့ လိုပါမည်၊ လေ့လာဖို့လည်း ကောင်းပါသည်။

သို့မှသာ မိမိတို့ ကိုးကွယ်သော ဆရာတော်သံဃာတော်များလည်း အပြစ်လွတ်၍ မိမိတို့လည်း ကုသိုလ်အကျိုး ဖွံ့ဖြိုးပါလိမ့်မည်။

ဤငွေကြေးကိစ္စများနှင့်ပတ်သက်၍ ဆရာတော်ဘုရားကြီး အရှင်ဇနကာဘိဝံသ ကိုယ်တော်တိုင်ပို့ချသော ဩဝါဒကို တင်ပြလိုပါသည်။

## ငွေကြေးကိစ္စ သင်ပြမှုများ

ဆရာတော် အရှင် ဇနကာဘိဝံသသည် ဗုဒ္ဓသာသနာတော်ကြီးကို ထမ်းရွက်ကြရာ၌ ဘယ်လိုနည်းဖြင့် ထမ်းရွက်မှ ဗုဒ္ဓအလိုတော်ကျ ဖြစ်နိုင်မည်နည်းဟု စဉ်းစားသောအခါ "ဝိနည်းကို အခြေခံ၍ ထမ်းရွက်ကြမှ ဗုဒ္ဓရှင်တော်မြတ် ကျေနပ်တော်မူနိုင်မည်"ဟု သိလာရ၏၊ ထို့ကြောင့် အရာရာတွင် ဝိနည်းနှင့်စပ်၍ တင်းတင်းကြပ်ကြပ် ဆုံးမတော်မူ၏။

သံဃာတော်တွေ များလာမှ တင်းကြပ်သည် မဟုတ်၊ သံဃာ နည်းပါးစဉ်ကလည်း တင်းကြပ်သည်၊ လေးငါးပါးရှိစဉ်ကလည်း တင်းကြပ်သည်၊ တစ်ပါးတည်း ရှိစဉ်ကလည်း တင်းကြပ်သည်သာ။

ယခုအခါ ဝိနည်းကြောင်းကိစ္စ များစွာရှိရာတွင် ငွေကြေးနှင့်ပတ်သက်သော ဆရာတော်၏ပို့ချချက် သတိပေးချက်တို့ကို ဤနေရာတွင်တင်ပြလိုပါသည်။

**ဆရာတော်**။ ။ ကဲ...ဝိနည်းပါတိမောက်မှာလာတဲ့ ရာဇသိက္ခာပုဒ်ပါဠိကို ရွတ်ကြစမ်း။

**သံဃာများ**။ ။ ဘိက္ခုံ ပနေဝ ဥဒ္ဒိဿ ရာဇာ ဝါ ရာဇဘောဂ္ဂေါ ဝါ ဗြာဟ္မဏော ဝါ ဂဟပတိကော ဝါ (ပေ) အယံ တတ္ထ သာမိစိ။

**ဆရာတော်**။ ။ အနက်ပေးကြစမ်း။

**သံဃာများ**။ ။ (ပါတိမောက် ဘာသာဋီကာအတိုင်း အနက်ပေးကြသည်။)

**ဆရာတော်**။ ။ ကဲ အဲဒီ အဓိပ္ပာယ်ကို ရိုးရိုးကလေး စဉ်တန်းကြည့်ကြစို့၊ ရှင်ဘုရင်ကဖြစ်စေ, အမတ်ကြီးကဖြစ်စေ, ပုဏ္ဏားကဖြစ်စေ, အိမ်ရှင်ယောက်ျားကဖြစ်စေ ရဟန်းတစ်ပါးပါးကို ရည်စူး၍ သင်္ကန်းအဖိုးငွေကို ကိုယ်စားလှယ်(တမန်)ဖြင့် အလှူနိုင်းသည်၊ "ဒီငွေနှင့် သင်္ကန်းဝယ်ပြီး (ဥပမာ-ဦးတိဿဆိုပါတော့၊) ဦးတိဿအား လှူပါ" လို့ မှာလိုက်တယ်တဲ့၊ ဒီတော့ အဲဒီတမန်က ဦးတိဿ ထံ ချဉ်းကပ်ပြီး လျှောက်တယ်။

"ဒီ သင်္ကန်းဖိုးကို အရှင်ဘုရားဖို့ ယူခဲ့ပါသည်၊ သင်္ကန်းဖိုးငွေကို အလှူခံတော်မူပါ"လို့ လျှောက်တယ်၊ ဒီအခါမှာ ရဟန်းက ပယ်မြစ်ရမယ်။

"ငါတို့မှာ ငွေမအပ်ဘူး, ငွေကို အလှူမခံဘူး, အပ်စပ်တဲ့ သင်္ကန်းကိုသာ အလှူခံတယ်"လို့ပြောပြီး ငွေကို ပယ်ရမယ်၊ ဒီအထိ နားလည်ကြပြီလား။

**သံဃာများ**။ ။ နားလည်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ အေး, ဒီနေရာမှာ သတိရှိရမယ်၊ ငွေကို လာလှူရင် ခေါင်းခါလို့ဖြစ်စေ, လက်ကာလို့ဖြစ်စေ, ပါးစပ်နှင့် ခုနတုန်းကလို ပြောလို့ဖြစ်စေ ပယ်ရမယ်၊ ဒါဝတ္တရားပဲ၊ ဒီဝတ္တရားကို မလုပ်ရင် အပြစ်သင့်တယ်၊ ကိုယ့်ဘက်က ပယ်ရမည့် ဝတ္တရားရှိတယ်။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ အေး, ကိုယ့်ဘက်က ပယ်မြစ်ပါလျက်နှင့် အဲဒီ တမန်က "အရှင်ဘုရားမှာ ဝေယျာဝစ္စပြုသူ ကပ္ပိယရှိပါသလား"လို့ ထပ်ဆင့်လျှောက်ထားလျှင်တဲ့...

ဘုရားက ဘယ်လို အမိန့်ရှိပါသလဲ?

(စီဝရတ္ထိကေန ဘိက္ခဝေ ဘိက္ခုနာ ဝေယျာဝစ္စကရော နိဒ္ဒိသိတဗ္ဗော အာရာမိကောဝါ ဥပါသကောဝါ ဧသော ခေါ် အာဝုသော ဘိက္ခူနံ ဝေယျာဝစ္စကရောတိ)တဲ့။

သင်္ကန်းအလိုရှိတဲ့ကိုယ်တော်ဆိုရင် နီးနီးစပ်စပ် နေတတ်သူ အာရာမ်စောင့်ကိုပဲဖြစ်ဖြစ် ဥပုသ်စောင့်နေသူ သီတင်းသည် ဥပါသကာကိုပဲဖြစ်ဖြစ် ညွှန်ပြနိုင်တယ်တဲ့။

"ဒီပုဂ္ဂိုလ်ဟာ ဝေယျာဝစ္စပြုလုပ်သူပဲ၊ အပ်စပ်အောင် လုပ်တတ်တဲ့ ကပ္ပိယကာရကပဲ"လို့ ညွှန်ပြနိုင်တယ်၊ "ဤသူအား ပေးထားခဲ့ပါ"လို့တော့ မပြောဆိုကောင်းဘူးနော်, သတိရှိပါ။ (ဒီစကားအရ... သကန်း အလိုမရှိတဲ့ ကိုယ်တော်ဆိုရင် ကပ္ပိယကာရက ညွှန်ပြဖို့ မလိုဘူးပေါ့။)

ဒီနေရာမှာ အာရာမ်စောင့်နှင့် သီတင်းသည်ကို ပြထားတာကတော့ ကျောင်းမှာ အမြဲလို ရှိတတ်သူများ ဖြစ်နေလို့ပါပဲ၊ အမှန်ကတော့ "ဘိက္ခု, ဘိက္ခုနီ, သာမဏေ, သာမဏေမ, သိက္ခာမာန်"ဆိုတဲ့ သီတင်းသုံးဖော်ငါးဦးမှတစ်ပါး မည်သူ့ကိုမဆို ကပ္ပိယအဖြစ် ညွှန်ပြနိုင်ပါတယ်။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ နောက်တစ်ခု သတိရှိရမှာက တမန်ကပဲဖြစ်ဖြစ်, ကိုယ်တိုင် အလှူလာသူကပဲဖြစ်ဖြစ် "ကပ္ပိယ ရှိပါရဲ့လားဘုရား" (သို့မဟုတ်) "ကပ္ပိယ ညွှန်တော်မူပါဘုရား"လို့ လျှောက်ထားသော် ကပ္ပိယကို ညွှန်ပြခွင့်ရှိတယ်နော်၊ အဲလို မလျှောက်ဘဲနှင့် "အရှင်ဘုရား... ဒီသင်္ကန်းဖိုးငွေကို ဘယ်သူ့ ပေးခဲ့ရမလဲ"လို့ လျှောက်တာမျိုးတွေကျတော့ ကပ္ပိယကို မညွှန်ကောင်းဘူး၊ မှတ်မိပါ့မလား။

**သံဃာများ**။ ။ မှတ်မိပါ အရှင်ဘုရား။

**ဆရာတော်**။ ။ အေး, အဲလို ရဟန်းက ညွှန်ပြတဲ့ ကပ္ပိယထံ တမန်က ငွေအပ်နှံပြီး "ဒီငွေနှင့် ဦးတိဿ အလိုရှိတဲ့အခါ သင်္ကန်းဝယ်ပြီး လှူပေးပါ"လို့ မှာကြားခဲ့တယ်၊ အဲဒီနောက် ရဟန်းထံ ပြန်ပြီး လျှောက်ပြန်တယ်၊ "အရှင်ဘုရား ညွှန်ပြတဲ့ ကပ္ပိယကို နားလည်အောင် ပြောပြီးပါပြီ၊ အလိုရှိတဲ့အခါ ချဉ်းကပ်တော်မူပါ, သင်္ကန်းလှူပါလိမ့်မည်"ဟု လျှောက်ထားသွားတယ်တဲ့၊ သဘောပေါက်ရဲ့လား?။

**သံဃာများ**။ ။ ပေါက်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ အေး, အဲလို လျှောက်ထားသွားလို့ ရှိရင် သင်္ကန်းအလိုရှိတဲ့အခါ အဲဒီ ကပ္ပိယထံ ချဉ်းကပ်ပြီး "အတ္ထော မေ အာဝုသော စီဝရေန"လို့ ပါဠိလိုဖြစ်စေ, ဒါမှမဟုတ် "ဒကာ... ငါ့မှာ သင်္ကန်းအလိုရှိပြီ" လို့ မြန်မာလို ဖြစ်စေ တောင်းကောင်းတယ်တဲ့၊ (သင်္ကန်းပေးပါ, သင်္ကန်းဝယ်ခဲ့ပါ... စသော အကပ္ပိယဝေါဟာရဖြင့်ကား မတောင်းကောင်း။)

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။အဲသလို အပ်စပ်တဲ့ကပ္ပိယဝေါဟာရစကားလုံးနှင့်ကတော့ တစ်ကြိမ်တောင်းလို့ မရလျှင် နှစ်ကြိမ် တောင်း, နှစ်ကြိမ်တောင်းလို့ မရသေးလျှင် သုံးကြိမ်အထိ ပါးစပ်နှင့် ပြောပြီး တောင်းကောင်းတယ်တဲ့။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ သုံးကြိမ်အတွင်း တစ်ကြိမ်ကြိမ်မှာ ရလို့ဖြစ်စေ၊ သို့မဟုတ် နှစ်ကြိမ်မြောက်မှာမှဖြစ်စေ ပါးစပ်နှင့် တောင်းလို့ရလျှင် ကောင်းတာပါပဲ၊ အဲ-သုံးကြိမ်ပါးစပ်နှင့်တောင်းလို့မှ မရဘူးဆိုလျှင်တော့ ပါးစပ်နှင့် မတောင်းနဲ့တော့၊ မည်သည့်စကားကိုမျှ မပြောတော့ဘဲ ဆိတ်ဆိတ်နေပြီး (ဆွမ်းရပ်သလို) သင်္ကန်းကို ရည်မှန်းပြီး ထိုကပ္ပိယထံမှာ ရပ်ရမည်၊ "ထိုင်ပါဦး၊ တရား ဟောပါဦး" စသည် လျှောက်စေကာမူ ထိုင်လဲ မထိုင်ဘဲ၊ တရားလဲ မဟောဘဲ "အလိုက်သိစွာ သင်္ကန်းလှူလိပ်မည်" ဟု သဘောထား၍ တိတ်ဆိတ်စွာ ရပ်ကောင်းတယ်။

ဘယ်နှစ်ကြိမ်ထိအောင် ရပ်ကောင်းသလဲဆိုရင် လေးကြိမ် ငါးကြိမ် ခြောက်ကြိမ်အထိ ရပ်ကောင်းတယ်၊ ဒီမှာ သတိရှိရမှာက အခုလို ရပ်နေတာဟာ အပ်စပ်တဲ့ သင်္ကန်းကို ရည်မှန်းပြီး ရပ်နေတာနော်၊ ငွေကို ပြန်ရဖို့ ရပ်နေတာ မဟုတ်ဘူး။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ ငွေကို အဲလိုကော အလှူခံကောင်းပါ့မလား။

**သံဃာများ**။ ။ မခံကောင်းပါ အရှင်ဘုရား။

**ဆရာတော်**။ ။ ဘုန်းကြီး ကြားဖူးတယ်၊ ရွာတစ်ရွာမှာ ကျောင်းထိုင်ဘုန်းကြီးက ဒကာတစ်ဦးကို ငွေချေးထားတယ်၊ အလိုရှိလို့ ပြန်တောင်းတဲ့အခါ ဒကာမှာလဲ မပြေလည်နိုင်လို့ ရုတ်တရက် ပြန်မပေးနိုင်ဘူး ဖြစ်နေတယ်။

ဒါကို ဘုန်းကြီးက အကြိမ်ကြိမ် တောင်းတယ်၊ မရဘူး၊ ဒီတော့ သင်္ကန်း ကြီးကို ရုံပြီး အဲဒီ ဒကာရဲ့ အိမ်ရှေ့မှာ စကားလဲ မပြောဘဲ၊ ဖိနပ်လဲ မစီးဘဲ၊ ထီးလဲ မဆောင်းဘဲ နေပူ ကြီးထဲမှာ သွားရပ်နေသတဲ့၊ ဒီတော့ ဒကာက ရိပ်မိသွားတယ်၊ "ငါ ချေးထားတဲ့ ငွေကို တောင်းတာပဲ"လို့ အဓိပ္ပာယ် သိသွားတယ်။

* ဒီတွင် ဒကာကလဲ အတော်အတန် ကြားဖူး နားဝရှိဟန် တူပါရဲ့၊ မာတင်္ဂဇာတ်တို့ ဘာတို့ကိုလဲ ဖတ်ဖူး နာဖူးတယ်နဲ့ တူရဲ့၊ စဏ္ဍာလ သူတောင်းစား ဇာတ်နိမ့်အမျိုး၌ ဖြစ်နေရသော မာတင်္ဂကြီးက ဒိဋ္ဌမင်္ဂလိကာကို လာတောင်းတော့ မပေးနိုင်ဘူးဆိုလို့ အိမ်ရှေ့မှာ လှဲအိပ်နေသတဲ့။

အစာမစားဘဲ ခုနစ်ရက်လောက် အိပ်နေတော့ "သူတောင်းစားတစ်ယောက် အိမ်ရှေ့မှာ လာသေရင် မင်္ဂလာမရှိဘူး"ဆိုတဲ့ အယူအဆမျိုးနှင့် ဒိဋ္ဌမင်္ဂလိကာ ရဲ့ ဖခင်ကြီးရော၊ အိမ်နီးနားချင်းတွေပါ ပျာယာခတ်သွားသလို အခုလဲ အဲဒီ ဒကာ ပျာယာခတ်သွားပုံရတယ်။

အဲဒီတွင် အိမ်နီးနားချင်းတွေဆီက အရေးတကြီး အတင်းချေးငှားပြီး ဘုန်းကြီးကို လှူလိုက်မှ ဘုန်းကြီးလဲ ပြန်သွားသတဲ့။

ကျောင်းရောက်မှ ဘုန်းကြီးက ပြောသတဲ့၊ ... "ကဲ-မှတ်ကရော၊ ဘုရားနည်းနှင့် လုပ်လိုက်မှပဲ ရတော့တယ်၊ ဘုရားနည်းက တယ်စွမ်းတာပဲ"လို့ ပြောသတဲ့။

**သံဃာများ**။ ။ (လေးစားစွာ ရယ်ကြသည်။)

**ဆရာတော်**။ ။ ဟုတ်ပါ့မလား၊ အခု သူ လုပ်တာ မှန်ရဲ့လား?။

**သံဃာများ**။ ။ မမှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ အခု သူက တိတ်ဆိတ်စွာ ရပ်ပြီး ဘာကို တောင်းတာလဲ။

**သံဃာများ**။ ။ ငွေကိုတောင်းပါ အရှင်ဘုရား။

**ဆရာတော်**။ ။ တောင်းကောင်းရဲ့လား။

**သံဃာများ**။ ။ မတောင်းကောင်းပါ အရှင်ဘုရား။

**ဆရာတော်**။ ။ သုံးကြိမ်ပါးစပ်နှင့်ပြောဆို၍ တောင်းခြင်း၊ ခြောက်ကြိမ် ပါးစပ်နှင့် မပြောဘဲ ရပ်ခြင်း ဆိုတာက "သင်္ကန်း (သို့မဟုတ်) အပ်စပ်တဲ့ ပစ္စည်း"ကို ဆိုလိုတာ။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ ငွေကို ဒီလိုပဲ သုံးကြိမ် တောင်းခြင်း၊ ခြောက်ကြိမ် ရပ်ခြင်း လုပ်လို့ ဖြစ်ပါ့မလား။

---

* ဝိ, ၃, ၄၄-၄၈။

**သံဃာများ**။ ။ မဖြစ်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ အေး- ဒါကို သတိရှိကြပါ၊ ငွေကို ဘယ်နည်းနှင့်မှ အလှူခံခွင့် မရှိပါဘူး။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ ဘာကြောင့်လဲ ဆိုတော့ ရပ်ခြင်းကို ပြတဲ့ နေရာမှာ သုံးကြိမ် နှစ်လီ (ခြောက်ကြိမ်) ပြထားလို့ပါပဲ။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ ဒီနေရာမှာ သတိချပ်ခဲ့ကြရဦးမယ် ကွဲ့၊ သုံးကြိမ်အထိ နှုတ်နှင့်တောင်းခွင့်၊ ခြောက်ကြိမ်အထိ ကိုယ်နှင့် ရပ်ခွင့်ကို ပေးထားတယ်၊ ဒီစကားကို ကောက်ချက်ချလိုက်ရင် တစ်ကြိမ်တောင်းခြင်းနှင့် နှစ်ကြိမ် ရပ်ခြင်း ညီမျှတယ်လို့ သိသာတာပေါ့။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ ဘာကြောင့်လဲဆိုတော့ ရပ်ခြင်းကို ပြတဲ့ နေရာမှာ သုံးကြိမ် နှစ်လီ ခြောက်ကြိမ် ပြထားလို့ပါပဲ။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ ဒါကြောင့် …ရပ်မှု မပါဘဲ နှုတ်နှင့် တောင်းရုံချည်း တောင်းမယ်ဆိုရင် (ရပ်မှု ခြောက်ကြိမ်ကို တောင်းမှု သုံးကြိမ်လုပ်ပြီး) ခြောက်ကြိမ်အထိ တောင်းကောင်းတယ်လို့ သိရတာပေါ့ကွဲ့။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ သဘောပေါက်ကြရဲ့လား။

**သံဃာများ**။ ။ ပေါက်ပါအရှင်ဘုရား။

**ဆရာတော်**။ ။ ပြီးတော့တစ်ခါ နှုတ်နှင့် မတောင်းဘဲ ကိုယ်နှင့် ရပ်ရုံသာ ရပ်မယ်ဆိုရင်လဲ (တောင်းမှု သုံးကြိမ်ကို ရပ်မှု ခြောက်ကြိမ်လုပ်ပြီး) တစ်ဆယ့်နှစ်ကြိမ်အထိ ရပ်နိုင်တယ်လို့ သိရတာပေါ့ကွဲ့။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ ဘယ့်နှယ်လဲ ရှင်းကြရဲ့လား။

**သံဃာများ**။ ။ ရှင်းပါ အရှင်ဘုရား။

**ဆရာတော်**။ ။ ဒီတော့ တစ်ခါ ထပ်မံပြီး သိနိုင်တာက နဂိုမူလ သုံးကြိမ်နှုတ်နှင့်တောင်းမှုထက် နောက်ထပ်တစ်ကြိမ် နှုတ်နှင့်တောင်းချင်ရင် ရပ်မှုဘက်က နှစ်ကြိမ် လျှော့ချရမယ်။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ အဲဒီအတိုင်းပဲ, နဂိုမူလခြောက်ကြိမ် ရပ်ခွင့်ရှိတာထက် နှစ်ကြိမ် တိုးပြီး ရပ်ချင်ရင် နှုတ်နှင့်တောင်းမှုဘက်က တစ်ကြိမ် လျှော့ရမယ်။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ အေး-ဒါက ရှိသမျှအဓိပ္ပာယ်, ရနိုင်သမျှ သဘောကို အကုန်ထုတ်၍ ပြောခြင်းသာ ဖြစ်ပါတယ်၊ တကယ်တော့ ဒီခေတ်မှာ ဒါလောက် အခက်အခဲကြုံကြမယ်မဟုတ်ပါဘူး။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ ရိုးရိုးစာလာပေလာအတိုင်း နှုတ်နှင့် သုံးကြိမ်တောင်းခြင်း, နှုတ်မပါဘဲ ကိုယ်နှင့်ခြောက်ကြိမ် ရပ်ခြင်းဖြင့် သင်္ကန်းရလျှင် တော်သေးတာပါပဲတဲ့၊ ဒါထက် ပိုပြီးကြိုးစားမှ သင်္ကန်းရလျှင်တော့ အဲဒီသင်္ကန်းဟာ နိဿဂ္ဂိထိုက်တယ်, စွန့်ပစ်ရမယ်၊ ရဟန်းမှာလဲ ပါစိတ်အာပတ်သင့်တော့တယ်။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ အေး- အဲဒီ သုံးကြိမ် တောင်းခြင်း, ခြောက်ကြိမ် ရပ်ခြင်းထက် ပိုပြီး ကြိုးစားလို့တောင်မှ သင်္ကန်းမရဘူးဆိုရင်တော့ သင်္ကန်းဖိုးငွေ ပို့လိုက်တဲ့ အလှူရှင်ထံ ကိုယ်တိုင်ဖြစ်ဖြစ်, တစ်ယောက်ယောက်ကို လွှတ်လို့ပဲဖြစ်ဖြစ် သွားရမယ်၊ သွားပြီးတော့ သင်တို့ ပို့လိုက်တဲ့ သင်္ကန်းဖိုးငွေဟာ ရည်မှန်းတဲ့ရဟန်းအတွက် အကျိုးမဖြစ်ဖူး၊ ပြန်ရအောင် ကြိုးစားကြ"လို့ ပြောရမယ်၊ ဒါဟာ ဝတ္တရားပဲ။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ ကဲ-ဒီကနေ့တော်ကြဦးစို့၊ မနက်ဖြန်မှ ဒီအကြောင်းအရာတွေ ဆက်ပြီးပို့ချမယ်၊ အခု ဒီအထိမမေ့အောင် မှတ်ထားကြနော်။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။



ဗုဒ္ဓမြတ်စွာ လောင်းလျာတုန်းက နောက်ဆုံးအထိ ပါရမီ၊
လူ့နတ်များစွာ ချမ်းသာရေးမို့ အသက်ပေးလို့ ဖြည့်ခဲ့သည်။
ဗုဒ္ဓမြတ်စွာ သာသနာအတွက်မို့ ငါ့ပါအသက် ဆုံးစေမည်၊
နောက်မဆုတ်ပေါင် ခုလိုတွေးလို့ ကုသိုလ်ရေးမို့ ကြိုးစားမည်။







သာသနာပြင်ပက ပုဂ္ဂိုလ်များဟာ
တစ်ဘဝစာလောက်အတွက် ပညာကို
အခယူပြီး သင်ပေးကြတယ်၊
သာသနာတွင်းက ဆရာသမားများကတော့
ဘဝများစွာအတွက် ပညာကို
ဆွမ်း သက်န်းပေးပြီး သင်ပေးကြတယ်၊
ကိုရင်တို့–
စာထဲမှာ လူပါးဝအောင် လုပ်ကြ၊
စာတွေက သိပ်ကောင်းတယ်။















သိက္ခာသုံးပါးတည်မှ သာသနာတည်မယ်၊
သိက္ခာသုံးပါးတည်ဖို့ရာ ဝိနည်းကိုယ်ကျင့်သီလ မြဲမှဖြစ်မယ်။

ရဟန်းကျင့်ဝတ် တစ်ပါးတတ်က လူနတ်ဦးခိုက် ပူဇော်ထိုက်၏၊
ရဟန်းကျင့်ဝတ် တစ်ပါးချွတ်က လူနတ်မကြိုက် ကဲ့ရဲ့ထိုက်၏။

ဘုန်းကြီးက သူတော်ကောင်းနတ်တွေကို တိုင်တည်ထားတယ်၊
နတ်တွေကလဲ စောင့်ရှောက်နေတယ်၊
ဒီကျောင်းတိုက်မှာ မတော်မလျော်လုပ်တဲ့ ပုဂ္ဂိုလ်ဆိုရင်
မထားကြပါနဲ့လို့ ပြောထားတယ်။

သံဃာ့ဥပုသ်ပြုသြဝါဒခံယူစဉ်။











# ရဟန်းတော်များနှင့်ငွေကြေးကိစ္စဒုတိယပိုင်း

## ရဟန်းနှင့်ရွှေငွေများ

သာသနာပြုရာတွင် ယခုအခါ ငွေမပါ၍လည်း မဖြစ်, ငွေအလှူခံမှုကိုလည်း ဘုရားက လုံးဝ ခွင့်မပြု, ဤငွေသည် အဆိပ်သဖွယ်ဖြစ်၏၊ အဆိပ်ကို ဓာတုဗေဒနည်းအားဖြင့် စနစ်တကျ သုံးစွဲလျှင် "ဆေး" ဖြစ်နေသည်ကို သိပ္ပံထွန်းကားသော ယခုအခါတွင် တွေ့မြင်နိုင်၏၊ မသုံးစွဲတတ်လျှင်ကား "ဘေး"ဖြစ်နိုင်သည်။

ရဟန်းတော်များနှင့် ရွှေငွေသည်လည်း ဤသဘောပင် ဖြစ်နေ၏၊ မသုံးစွဲတတ်လျှင် ဝိနည်းတော်အရ ဘေးဖြစ်နိုင်၏၊ သုံးစွဲတတ်လျှင်ကား ဝိနည်းသဘောအရ ကပ္ပိယဝေါဟာရဖြင့် ကပ္ပိယကာရကများက အပ်စပ်အောင် စီမံပြန်လျှင် သုံးစွဲခွင့် ရနေပြန်၏။

ရဟန်းတော်များသည် ရွှေငွေကို တိုက်ရိုက်လက်မခံရ, မကိုင်ရ, မသာယာရ, မသိမ်းဆည်းရ၊ သို့သော် အပ်စပ်အောင်စီမံ၍ ထိုငွေမှ ဖြစ်သော ပစ္စည်းကိုကား သုံးစွဲခွင့်ရနိုင်နေပြန်၏။

ဤသဘောကလေးများကို နားလည်ဖို့ရန် အရှင်ဇနကာဘိဝံသ ဆရာတော်ကြီးက ဝိနည်းကျင့်ထုံးများကို ဆက်လက် ပို့ချတော်မူသည်။

**ဆရာတော်**။ ။ ကဲ- မနေ့တုန်းက ရာဇသိက္ခာပုဒ်ဇာတ်ကြောင်းကို ပြန်ပြီး နှလုံးသွင်းကြ။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ အဲဒီ သိက္ခာပုဒ်အရ ရှင်ဘုရင်တို့, အမတ်ကြီးတို့စသော ပုဂ္ဂိုလ်တို့က ကိုယ်စားလှယ် (တမန်)ဖြင့် ငွေလှူခိုင်းပုံကို ပြထားတယ်၊ အဲလို တမန်က ငွေလာလှူရင် ပယ်ရမယ်လို့ ဆိုခဲ့ပြီ၊ ကြားလူ တမန်နှင့် မဟုတ်ဘဲ အလှူရှင်ကိုယ်တိုင် သင်္ကန်းဖိုးငွေကို လာလှူရင်လဲ အဲဒီ သိက္ခာပုဒ် အစီအစဉ်အတိုင်း ပယ်ရ, ဆောင်ရွက်ရမှာပဲ။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ သင်္ကန်းဖိုးသာမက ဆွမ်းဖိုး,ကျောင်းဆောက်ဖို့အဖိုး,စာအုပ်ဖိုး, ခဲတံဖိုး, အခြား ထွေထွေရာရာသုံးဖို့အဖိုး လာရောက်လှူဒါန်းရာ၌လဲ ဒီသိက္ခာပုဒ်အတိုင်းပဲ ပယ်ရ မြစ်ရ ညွှန်ကြားရမှာပဲ၊ အပ်စပ်တဲ့ပစ္စည်းကို သုံးကြိမ်တောင်းခြင်း, ခြောက်ကြိမ် ရပ်ခြင်းဆိုတဲ့ အစီအစဉ်တွေ လုပ်ရမှာပဲ။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ အဲဒီ ရာဇသိက္ခာပုဒ်မှာ အပ်စပ်တဲ့ ပစ္စည်းကို အလိုရှိရင် ကပ္ပိယကို ညွှန်ပြနိုင်တယ်လို့ ခွင့်ပြုတော်မူပြီး "ဧသော ခေါ အာဝုသော ဘိက္ခူနံ ဝေယျာဝစ္စကရောတိ"လို့ ရဟန်းကိုယ်တိုင် ညွှန်ပြအပ်တဲ့ ကပ္ပိယကို တွေ့ရတယ် မဟုတ်လား။

**သံဃာများ**။ ။ တွေ့ရပါ အရှင်ဘုရား။

**ဆရာတော်**။ ။ အဲဒါနှင့် စပ်လို့ အဲဒီ ကပ္ပိယမျိုးနှင့် အလျော် ဖြစ်တဲ့ ကပ္ပိယများ, အလျော် မဟုတ်တဲ့ ကပ္ပိယများကိုလဲ ဒီနေရာမှာ သိထားသင့်ကြတယ်ကွဲ့။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ ကဲ ဒီလိုဆိုရင် လိုက်ဆိုကြ။

**၁။ ရဟန်းညွှန်ပြ, လေးယောက်မျှ, ဒူတ ညွှန်လေးဖြာ။**

**၂။ အနိဒ္ဒိဋ္ဌ, ဒုဝိဓ, ပေါင်းက တစ်ကျိပ်သာ။**

**သံဃာများ**။ ။ (အားလုံး သံပြိုင်ညီညာ လိုက်ဆိုကြသည်။)

## ကပ္ပိယပေါင်း တစ်ကျိပ်

**ဆရာတော်**။ ။ ကပ္ပိယံ ကရောတီတိ ကပ္ပိယကာရကော၊ ကပ္ပိယံ- အပ်စပ်သည်ကို၊ ဝါ-အပ်စပ်အောင်၊ ကရောတိ-ပြုတတ်၏၊ ဣတိ-ထို့ကြောင့်၊ ကပ္ပိယကာရကော- ကပ္ပိယကာရကမည်၏...တဲ့၊ ရဟန်းများအတွက် အပ်စပ်အောင် ပြုတတ်လို့ "ကပ္ပိယကာရက" ခေါ်တယ်၊ ကာရကကို ဖြုတ်ပြီး အတိုသုံးအားဖြင့် "ကပ္ပိယ"လို့ပဲ ခေါ်ကြတော့တယ်၊ အဲဒီ ကပ္ပိယဟာ တစ်ကျိပ်ရှိတယ်ကွဲ့။ (အမျိုးအစား ၁၀ မျိုး ရှိတယ်ဆိုတာပေါ့။)

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။(က) ရဟန်းညွှန်ပြတဲ့ ကပ္ပိယ ၄ မျိုး၊
(ခ) တမန်ညွှန်ပြတဲ့ ကပ္ပိယလည်း ၄ မျိုး၊
(ဂ) အနိဒ္ဒိဋ္ဌ (မည်သူမျှ မညွှန်ပြအပ်သော) ကပ္ပိယ ၂ မျိုးလို့

အားလုံး ကပ္ပိယတစ်ကျိပ်ရှိတယ်ကွဲ့၊ ဘယ်လောက်ရှိသတဲ့လဲ။?

**သံဃာများ**။ ။ တစ်ကျိပ်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ အဲဒီ အထဲက ရဟန်းညွှန်ပြတဲ့ ကပ္ပိယ ၄ မျိုးဆိုတာ မျက်မှောက် အနီးအပါး၌ ညွှန်ပြအပ်သူ တစ်ယောက်၊ မျက်ကွယ်အဝေးကို လှမ်းပြီး ညွှန်ပြအပ်သူ ၃ ယောက်ကို ပြောတာ၊ အဲဒါ မင်းတို့ ခွဲတတ်ကြပလား။?

**သံဃာများ**။ ။ မခွဲတတ်သေးပါ အရှင်ဘုရား။

**ဆရာတော်**။ ။ အေး ... သိက္ခာပုဒ်ထဲမှာ လာတဲ့အတိုင်း ကပ္ပိယညွှန်ပြပါဆိုတော့ ရဟန်းက "ဒီပုဂ္ဂိုလ်ဟာ ကပ္ပိယ"လို့ ညွှန်ပြလိုက်တယ်၊ ဒီတော့ တမန်က (သို့မဟုတ်) အလှူရှင်ကိုယ်တိုင်က ငွေကို အပ်နှံပြီး "သင်္ကန်းဝယ်၍ လှူရစ်ပါ"လို့ ပြောဆိုမှာထားသွားလျှင် ရဟန်းအား ထပ်မံ၍ အထူးမလျှောက်သော်လည်း မိမိရှေ့မှာပင် မှာထားသွားသောကြောင့် သိက္ခာပုဒ်လာအတိုင်း တောင်းမှု ရပ်မှု ပြုနိုင်ပြီ၊ ဒါ ... အနီးညွှန်ပြ တစ်ယောက်။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ နောက်သုံးမျိုးကတော့ ...ရဟန်းရဲ့ မျက်ကွယ်မှာရှိတဲ့သူတွေပဲ၊ ကပ္ပိယ ညွှန်ပြပါလို့ လျှောက်လာတဲ့အခါ (ဥပမာ မောင်ဖြူ ဆိုပါတော့) မျက်ကွယ်မှာရှိတဲ့ /အရပ်ထဲမှာ ရှိတဲ့ မောင်ဖြူကို ညွှန်ပြလိုက်တယ်။

(၁) အလှူရှင်က မောင်ဖြူထံသွားပြီး ငွေကို အပ်နှံ ပြောဆိုပြီးနောက် ရဟန်းထံ နောက်တစ်ခေါက် ကိုယ်တိုင် ပြန်ပြီးလျှင် "အရှင်ဘုရား...မောင်ဖြူထံ ငွေ ၁၀ဝိ အပ်ခဲ့ပါပြီ၊ အလိုရှိတဲ့အခါ အပ်စပ်တဲ့ ပစ္စည်းကို တောင်းတော်မူပါ"ဟု လျှောက်ခြင်း၊

(၂) မောင်ဖြူထံ ငွေကို အပ်နှံပြီးနောက် ကိုယ်တိုင် ပြန်၍ မလျှောက်နိုင်သောကြောင့် တစ်ယောက် ယောက်ကို စေလွှတ်၍ ယခင်နည်းအတိုင်း အလျှောက်ခိုင်းခြင်း၊

(၃) ရဟန်းညွှန်ပြတဲ့ ကပ္ပိယမောင်ဖြူထံ သွားခါနီး (မသွားခင်ကပင်) "အရှင်ဘုရား ညွှန်ပြတဲ့ မောင်ဖြူထံ ငွေ ၁၀ဝိ အပ်နှံခဲ့ပါမည်၊ အလိုရှိတဲ့အခါ အပ်စပ်သောပစ္စည်းကို တောင်းတော်မူပါ"ဟု တစ်ခါတည်း မှာထား၍ လျှောက်သွားခြင်း"လို့ သုံးမျိုး၊ ပုဂ္ဂိုလ်ကွဲပြားလို့ သုံးမျိုးကွဲပြားတာ မဟုတ်ဘူး၊ လျှောက်ထားပုံ ကွဲပြားလို့ သုံးမျိုးကွဲပြားနေတာ၊ မှတ်ထားကြနော်။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ တမန်ညွှန်း ကပ္ပိယ ၄ မျိုးဆိုတာလဲ ရဟန်းညွှန်း ကပ္ပိယ ၄ မျိုးလိုပဲ ကွဲပြားပုံခြင်း တူကြတယ်။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ ထင်ရှားအောင် ခွဲ့ပြီး ပြောရလျှင်တော့ တမန်က(အလှူရှင်ကိုယ်တိုင်က)လာပြီး ငွေလှူချင်လို့ "ကပ္ပိယညွှန်းတော်မူပါဘုရား"လို့ လျှောက်တဲ့အခါ ကပ္ပိယမရှိသောကြောင့်ဖြစ်စေ, ရှိသော်လည်း မညွှန်ပြလိုသောကြောင့်ဖြစ်စေ ရဟန်းက ကပ္ပိယမညွှန်းဘဲနဲ့ တိတ်တိတ်နေလျှင်

တမန်ကိုယ်တိုင် (အလှူရှင်ကိုယ်တိုင်) ကပ္ပိယလုပ်မည့်သူ လိုက်ရှာတယ်၊ တွေ့သောအခါ ထိုကပ္ပိယကို ရဟန်းထံ ခေါ်လာပြီး...

(၁) ရှေ့မှာ အပ်နှံပြောဆိုခြင်း။

(၂) အဝေးမှာ ရှိသူထံ အပ်နှံ၍ ကိုယ်တိုင် ပြန်ပြီး လျှောက်ခြင်း။

(၃) စေလွှတ်၍ လျှောက်ထားခြင်း။

(၄) သွားခါနီးကပင် လျှောက်ထားသွားခြင်းအားဖြင့် ယခင်လိုပင် လေးမျိုးလေးစား ကွားပြားတယ်၊ လျှောက်ပုံလျှောက်နည်း အတူတူပဲ၊ နားလည်ကြပလား။

**သံဃာများ။** ။ နားလည်ပါ အရှင်ဘုရား။

**ဆရာတော်။** ။ အဲဒီနောက် (အနိဒ္ဒိဋ္ဌ) မညွှန်းအပ်တဲ့ ကပ္ပိယနှစ်ယောက်ရှိသေးတယ်၊ သူတို့က ဒီလိုကွဲ့, တမန်က (သို့မဟုတ်) အလှူရှင်က "ကပ္ပိယရှိပါသလားဘုရား"လို့ မေးလျှောက်တဲ့အခါ ရဟန်းက ကပ္ပိယမညွှန်းဘဲ နေလိုက်တယ်။

(၁) ဒီတွင် အနီးအနားမှာရှိတဲ့ လူတစ်ယောက်က "ကျွန်တော့်ထံ အပ်ခဲ့ပါ, ကျွန်တော်ဝယ်ပြီး လှူလိုက်ပါ့မယ်"ဟု ပြောသောကြောင့် ထိုသူထံမှာ အပ်နှံသွား၏၊ ထိုကပ္ပိယအား "လှူရစ်ပါ"လို့တော့ မမှာမိ၊ ရဟန်းကိုလဲ "တောင်းရစ်ပါ" လို့ မလျှောက်မိ၊ ထိုကဲ့သို့သော ကပ္ပိယတစ်မျိုး။

(၂) တမန် (သို့မဟုတ်) အလှူရှင်တစ်ယောက်ကတော့ ရဟန်း၏မျက်ကွယ်မှာရှိသော သင့်တော်သူတစ်ယောက်ထံ ငွေအပ်နှံ၍ "သင်္ကန်းဝယ်လှူပေးပါ"လို့ မှာထားခဲ့၏၊ သို့သော် ရဟန်းကိုကား"မည်သူ့ထံတောင်းရစ်ပါ"ဟုမလျှောက်မိ၊ ထိုကဲ့သို့သော ကပ္ပိယတစ်မျိုး။

ဤသို့လျှင် ရဟန်းကလည်း မညွှန်ပြအပ်, တမန်ကလည်း မညွှန်ပြအပ်သော ကပ္ပိယ နှစ်ယောက်ရှိတယ်၊ မတောင်းကောင်းဘူး၊ လိုရင်းကတော့ ဒီနောက်ဆုံး ကပ္ပိယ နှစ်ယောက်ဟာ ပဝါရိတများ မဟုတ်ကြ။

ရဟန်းဆိုတာ ဉာတိ (ဆွေမျိုး) ရင်လဲ ဖြစ်ရမယ်, ပဝါရိတ (ဖိတ်မန်လျှောက်ထားသူ) ရင်လဲ ဖြစ်ရမယ်၊ ဒါမှ တောင်းကောင်းတယ်၊ ရဟန်းရှေ့တွင် အပ်နှံမှာကြားအပ်သော ကပ္ပိယတို့ကား အထူး ထပ်မံ မလျှောက်သော်လဲ ပဝါရိတသဘောသက်ရောက်သွားတယ်။

## မေဏ္ဍကဝတ္ထု

**ဆရာတော်။** ။ ဒီငွေကြေးကိစ္စတွေနှင့် ပတ်သက်လို့ ဝိနည်း မဟာဝါပါဠိတော် ဘေသဇ္ဇက္ခန္ဓကမှာလာတဲ့ မေဏ္ဍကဝတ္ထုကိုလဲ တွဲဖက်ပြီး သိထားသင့်ကြတယ်ကွဲ့။

**သံဃာများ။** ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်။** ။ ဘုရားလက်ထက်တော်တုန်းက ... ဘဒ္ဒိယမြို့မှာမေဏ္ဍကသူဌေးဆိုတာရှိတယ်၊ သူ့အစွမ်းက ခေါင်းလျှော်ပြီး စပါးကျီတွေကို သန့်ရှင်းထားလိုက်ရင် ကောင်းကင်က စပါးတွေကျလာပြီး ကျီတွေကို ပြည့်စေတယ်ဆိုတဲ့အစွမ်း။

သူဌေးကတော်ကတော့ တစ်ပြည်ချက် ထမင်းအိုးနှင့် ဟင်းအိုးနားမှာ ထိုင်ပြီး အလုပ်သမားတွေကို ထမင်းကျွေးလျှင် သူ ထမသွားသမျှ မကုန်ဘူးဆိုတဲ့အစွမ်း။

သူဌေးသားကလည်း တစ်ထောင်ထုပ်ငွေအိပ်ကို ပိုက်ပြီး အလုပ်သမားတွေအတွက် ၆-လစာ ငွေတွေ ထုတ်ပေးလျှင် သူ့လက်က မချသမျှ ငွေတွေဟာ ကုန်တယ်လို့ မရှိဘူးဆိုတဲ့အစွမ်း။

သူဌေး၏ ချွေးမလုပ်သူကလည်း တစ်စိတ်ဝင် တောင်းတစ်လုံးနှင့် အလုပ်သမားတွေကို ၆-လစာ ဆန်တွေခြင်ပေးနေလျှင် သူ့ထမသွားသမျှ ဆန်တွေ မကုန်ဘူးဆိုတဲ့အစွမ်း။

သူဌေးအိမ်မှာ အိမ်သားသဖွယ် အရင်းနှီးဆုံး အယုံကြည်ရဆုံးဖြစ်တဲ့ ကျွန်ကလည်း ထွန်သွားတစ်ချောင်းသာ တပ်ပြီး လယ်ထဲမှာ ထွန်လျှင် ထွန်သွား ခုနစ်ချောင်းရာ ထင်သွားတယ်ဆိုတဲ့ အစွမ်း။

အဲသလို ရှေးကံတွေကြောင့် ကိုယ်စီ ကိုယ်စီ အစွမ်းရှိကြတဲ့ မိသားစုတွေဟာ တွဲဖက်မိပြီးတော့ စိတ်ချမ်းသာ ကိုယ်ချမ်းသာနှင့် ဘဒ္ဒိယမြို့မှာ နေထိုင်ကြတယ်။

အဲဒီအခိုက် မြတ်စွာဘုရားနှင့် နောက်ပါသံဃာတွေ ဘဒ္ဒိယမြို့ကို ရောက်လာကြတော့ မေဏ္ဍကသူဌေးတို့ မိသားစုက ဆွမ်းကပ်ကြတယ်၊ "ဘဒ္ဒိယမြို့မှာ သီတင်းသုံးတော်မူသမျှ နေ့တိုင်း ဆွမ်းကပ်ပါရစေ"လို့လည်း လျှောက်ထားသေးတယ်။

နောက် ဘဒ္ဒိယမြို့က မြတ်စွာဘုရားပြန်ကြွတော့လည်း လမ်းထိအောင် လိုက်ပြီး ဆွမ်းကပ်ကြတယ်၊ ဒါတွင်မက "တချို့ လမ်းခရီးတွေဟာ အစာရှား၊ ရေရှား ဖြစ်ပါတယ်ဘုရား၊ ရိက္ခာမပါဘဲနှင့် သွားလို့မလွယ်ပါ၊ ဒါကြောင့် သံဃာတော်များအား ရိက္ခာခွင့်ပြုတော်မူပါဘုရား"လို့ တောင်းပန်တဲ့အတွက် မြတ်စွာဘုရားက "ပဥ္စဂေါရသ"ကို ရိက္ခာအဖြစ် ခွင့်ပြုတော်မူခဲ့တယ်။

ထို့ပြင်လည်း... "ဆန် အလိုရှိသူက ဆန်ကို၊ ပဲနောက် အလိုရှိက ပဲနောက်ကို၊ ဆားကို အလိုရှိသူက ဆားကို၊ ထန်းလျက် အလိုရှိသူက ထန်းလျက်ကို၊ ဆီအလိုရှိသူက ဆီကို၊ ထောပတ်အလိုရှိသူက ထောပတ်ကို ရိက္ခာအဖြစ် ရှာဖွေဖို့ရန် ခွင့်ပြုတော်မူ၏"လို့ မိန့်သေးတယ်။

အဲဒီနောက် တစ်ဆက်တည်း အမိန့်ရှိပြန်တာက *"**သန္တိ ဘိက္ခဝေ မနုဿာ သဒ္ဓါပသန္နာ၊ တေ ကပ္ပိယကာရကာနံ ဟတ္ထေ ဟိရညံ ဥပနိက္ခိပန္တိ 'ဣမိနာ အယျဿ ယံ ကပ္ပိယံ၊ တံ ဒေထာ'တိ၊ 'အနုဇာနာမိ ဘိက္ခဝေ ယံ တတော ကပ္ပိယံ၊ တံ သာဒိတုံ၊ န တွေဝါဟံ ဘိက္ခဝေ ကေနစိ ပရိယာယေန ဇာတရူပရဇတံ သာဒိတဗ္ဗံ ပရိယေသိတဗ္ဗန္တိ ဝဒါမိ**" ဟူ၍ ဖြစ်တယ်။

အဓိပ္ပာယ်က "ရဟန်းတို့... သဒ္ဓါတရားရှိ၍ သာသနာကို ကြည်ညိုတဲ့ပုဂ္ဂိုလ်တွေရှိတတ်ကြတယ်၊ အဲဒီသူတွေက ကပ္ပိယကာရကတို့လက်မှာ ငွေကို အပ်နှံပြီးလျှင် "အရှင်မြတ်အား အပ်စပ်သောပစ္စည်းကို လှူပေးပါ"ဟု မှာကြားတတ်ကြ၏။

ရဟန်းတို့...ထိုငွေမှဖြစ်သော အပ်စပ်သော ပစ္စည်းကို သာယာကောင်း၏၊ တောင်းကောင်း၏၊ သုံးစွဲကောင်း၏၊ ရွှေငွေကိုကား မည်သည့်ပရိယာယ် မည်သည့်နည်းနှင့်မျှ မသာယာကောင်း"ဟု ဟောတော်မူထားတယ်။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ အဲဒီ မေဏ္ဍကသူဌေးကို အကြောင်းပြုပြီး ခွင့်ပြုအပ်တဲ့ သိက္ခာပုဒ်ကို "မေဏ္ဍကသိက္ခာပုဒ်"လို့ ခေါ်တယ်ကွဲ့။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ ဒီ မေဏ္ဍက သိက္ခာပုဒ်မှာ လာတဲ့ ကပ္ပိယတို့ဟာ ရဟန်းက ညွှန်ပြတဲ့ ကပ္ပိယတွေ မဟုတ်ဘူးကွဲ့၊ တမန်ကိုယ်တိုင်၊ အလှူရှင်ကိုယ်တိုင် ညွှန်ပြအပ်တဲ့ ကပ္ပိယတွေပဲ၊ သတိထားမိကြရဲ့လား။

**သံဃာများ**။ ။ ထားမိပါ အရှင်ဘုရား။

**ဆရာတော်**။ ။ အေး- ဒါကြောင့် ကပ္ပိယက ရဟန်းရဲ့ မျက်ကွယ်မှာ ဖြစ်တယ် ဆိုရင် "မည်သူ့ထံ အပ်စပ်တဲ့ ပစ္စည်းကို တောင်းတော်မူပါ" လို့ ရဟန်းအား တစ်နည်းနည်းဖြင့် သိအောင် လျှောက်ထားရဦးမယ်။

**သံဃာများ**။ ။ လျှောက်ထားရမှာပါ အရှင်ဘုရား။

**ဆရာတော်**။ ။ ဒါမှ တောင်းကောင်းသွားမယ်။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ တောင်းကောင်းရုံတွင်မကဘူး၊ ဒီလို လျှောက်ထားလိုက်လို့ရှိရင် အကြိမ် ပေါင်း ရာ ထောင်မက မရမချင်း တောင်းနိုင်တယ်။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ ဘာလို့လဲဆိုတော့ တမန် ညွှန်ပြတဲ့ ကပ္ပိယမို့လို့။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

---

* ဝိနယ မဟာဝဂ္ဂပါဠိ, ဆဋ္ဌ, နှာ-၃၄၂။

**ဆရာတော်**။ ။ ပြန်ပြီးပြောရမယ်ဆိုရင် (က) ရဟန်း ညွှန်ပြအပ်တဲ့ ကပ္ပိယလေးယောက် အပေါ်မှာ ရာဇသိက္ခာပုဒ်အတိုင်း သုံးကြိမ်တောင်းမှု, ခြောက်ကြိမ် ရပ်မှုကို ပြုနိုင်တယ်။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ (ခ) တမန် ညွှန်ပြအပ်တဲ့ ကပ္ပိယလေးယောက်အပေါ်၌ မေဏ္ဍကသိက္ခာပုဒ်လာအတိုင်း အကြိမ်ပေါင်းရာထောင်မကမရမချင်း တောင်းနိုင်ခွင့်ရှိတယ်။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ (ဂ) နောက်ဆုံးဖြစ်တဲ့ "မည်သူကမျှ မညွှန်ပြအပ်"တဲ့... ကပ္ပိယ နှစ်ယောက် အပေါ်မှာတော့ အညာတက, အပ္ပဝါရိတ ပုံစံအတိုင်း လုံးဝမတောင်းကောင်းဘူး။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ အေး... ဒါကြောင့် "ရာဇ မေဏ္ဍ, အညာတ, ကျင့်ရစဉ်တိုင်းသာ" လို့ လင်္ကာဆိုကြတယ်ကွဲ့။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ ဒီငွေရေး ကြေးရေးနှင့်ပတ်သက်လို့ ရူပိယ သိက္ခာပုဒ်လဲ ရှိသေးတယ်၊ ပါဠိရွတ်ကြစမ်း။

**သံဃာများ**။ ။ **ယော ပန ဘိက္ခု ဇာတရူပရဇတံ ဥဂ္ဂဏှေယျ ဝါ ဥဂ္ဂဏှာပေယျ ဝါ ဥပနိက္ခိတ္တံ ဝါ သာဒိယေယျ၊ နိဿဂ္ဂိယံ ပါစိတ္တိယံ။**

**ဆရာတော်**။ ။ အဓိပ္ပာယ်က... ရွှေတို့ ငွေတို့ကို ရဟန်းသည် ကိုယ်တိုင်မူလည်း ခံယူအံ့၊ ဒါမှမဟုတ် မိမိကိုယ်စား သူတစ်ပါးကိုမူလည်း ခံယူခိုင်းအံ့၊ ဒါမှမဟုတ် အပ်နှံလှူဒါန်းအပ်တဲ့ ရွှေ ငွေတို့ကို မပယ်မြစ်ဘဲ စိတ်ထဲက သာယာနေအံ့၊ အဲဒီထဲက တစ်ခုခု ဖြစ်လျှင် နိသဂ္ဂိလည်း ထိုက်, ရဟန်းမှာလည်း ပါစိတ်အာပတ်သင့်တယ်လို့ ဆိုလိုတာ၊ သဘောပေါက်ကြရဲ့လား။

**သံဃာများ**။ ။ ပေါက်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ အေး...အဲဒီထဲက "ကိုယ်တိုင်ခံယူ" ဆိုတာ အလှူခံလာတဲ့ ရွှေငွေကိုပဲ ဖြစ်စေ, လမ်းမှ ဥစ္စာရှင်တွေ ကျပျောက်နေရစ်တဲ့ ရွှေငွေကိုပဲ ဖြစ်စေ ကိုယ်တိုင်ကောင်ယူခြင်း, ခံယူခြင်းကို ဆိုလိုတာ၊ ယူကောင်းပါ့မလား။

**သံဃာများ**။ ။ မယူကောင်းပါ အရှင်ဘုရား။

**ဆရာတော်**။ ။ "သူတစ်ပါးကို ခံယူခိုင်း" ဆိုတာက ကိုယ်တိုင် မယူဘဲ တစ်ယောက်ယောက်ကို အယူခိုင်းတာမျိုး, ဒါကော ဖြစ်ပါ့မလား။

**သံဃာများ**။ ။ မဖြစ်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ နောက်တစ်ခု (ဥပနိက္ခိတ္တံ ဝါ သာဒယေယျ) ဆိုတာကတော့...

(က) မျက်မှောက်အနီးအပါး၌ ချထားလှူဒါန်းအပ်တဲ့ ရွှေငွေ၊

(ခ) အဝေးကို လှမ်း၍ မည်သူ့လက်မှာ ရှိသော ရွှေငွေ၊ မည်သည့်အရပ်, မည်သည့်နေရာမှာ ရွှေငွေ၊

(ဂ) မည်သည့်ဘဏ်တိုက်မှာရှိသော ရွှေငွေ, အဲဒီ ရွှေငွေကို အရှင်ဘုရားအား လှူဒါန်းပါ၏။

အဲလို အနီးအဝေး နှစ်မျိုးလုံးကိုပင် "ဥပနိက္ခိတ္တ အပ်နှံလှူဒါန်းအပ်သော "ရွှေငွေ"လို့ ခေါ်တယ်။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ အဲလိုလှူဒါန်းလာတဲ့အခါ ဦးခေါင်းခါခြင်း, လက်ကာခြင်းဖြင့်ဖြစ်စေ၊ "ငါတို့မှာ ရွှေငွေမအပ်, ရွှေငွေကို လက်မခံကြ"ဟု နှုတ်ဖြင့်ပြော၍ဖြစ်စေ ပယ်ရမည်။

ကိုယ် နှုတ် တစ်ခုခုဖြင့် မပယ်ဘဲ စိတ်ထဲက လက်ခံနေလျှင် "ဥပနိက္ခိတ္တံ ဝါ သာဒယေယျ" ဖြစ်တော့တာပဲ၊ လှူဒါန်းတဲ့ ရွှေ ငွေကို သာယာရာ ရောက်တော့တာပဲ၊ ဒါကြောင့် လွတ်သွားအောင် ပယ်မြစ်ရမယ်။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ အခု တွေ့ခဲ့ရတဲ့ ရာဇသိက္ခာပုဒ်၊ မေဏ္ဍကသိက္ခာပုဒ်၊ ရူပိယသိက္ခာပုဒ်တို့အရ ရဟန်းတွေဟာ ရွှေငွေဆိုရင် ဘယ်နည်းနှင့်မျှ အလှူခံခွင့် မရဘူးဆိုတာ တွေ့ကြပလား။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ အေး ... အဲသလောက် တင်းတင်းကြပ်ကြပ် တားမြစ်ထားတာကွဲ့၊ ရဟန်းတော်များဟာ ရွှေငွေကို လုံးဝမအပ်စပ်ဘူး၊ တစ်နေရာမှာဆိုလျှင် မြတ်စွာဘုရားက "ရွှေငွေကို ရဟန်းတော်များ အပ်တယ်ဆိုလျှင် ကာမဂုဏ်ငါးပါးလည်း အပ်တယ်လို့ ဆိုရပေတော့မှာပေါ့"လို့တောင် ဟောတော်မူထားတယ်။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ တစ်ခါတုန်းက ဗုဒ္ဓရှင်တော်မြတ်က ဒီ ငွေကြေးကိစ္စနှင့် ပတ်သက်ပြီးတော့ ဟောတော်မူထားတာရှိတယ်ကွဲ့၊ အင်္ဂုတ္တိုရ် စတုက္ကနိပါတ်မှာ ပါတယ်၊ ဘယ်လိုလဲဆိုတော့... "ရဟန်းတို့...လတို့ နေတို့ အရောင်မလင်းနိုင်ခြင်း အကြောင်း အညစ်အကြေးလေးမျိုးရှိ၏၊ ဘာတွေလဲ ဆိုလျှင်...

၁။ ထူထပ်ပြစ်ခဲ မည်းမှောင်နေတဲ့တိမ်တိုက်တွေ၊
၂။ ထုထည်ကြီးမားတဲ့ ဆီးနှင်းတွေ၊
၃။ ပိတ်သဲထူထဲနေတဲ့ မြူခိုးတွေ၊
၄။ ပေပ်ဟုခေါ်ကြသော ရာဟုတို့ ဖြစ်ကြသည်။

ယင်းတို့နှင့် တွေ့လျှင်... မထွန်းလင်းနိုင်၊ မတောက်ပနိုင်၊ မတင့်တယ်နိုင်။

ရဟန်းတို့...ထို့အတူပင် ရဟန်းများမှာလည်း အရှိန်အဝါ ကင်း၍ တင့်တယ်တောက်ပခြင်းမရှိနိုင်သော အညစ်အကြေးလေးမျိုး ရှိ၏၊ ဘာတွေလဲ ဆိုလျှင်...

၁။ သေရည်အရက်သောက်ခြင်း (ဘိန်းရှူခြင်း စသည်)၊
၂။ မေထုန်မှီဝဲခြင်း၊
၃။ ရွှေငွေအလှူခံခြင်း (လှူသည်ကို လက်ခံခြင်း)၊
၄။ မိစ္ဆာဇီဝဖြင့် အသက်မွေးခြင်းတို့ ဖြစ်၏...တဲ့။

ကဲ... တွေ့ကြပလား? ဒီသာသနာတော်မှာ ရွှေငွေကို အလှူခံခြင်း၊ မေထုန်မှီဝဲခြင်း၊ သေရည်အရက်သောက်ခြင်းတို့ကို တစ်တန်းတစ်စားတည်းထားပြီး ဟောကြားတော်မူထားတာ။

**သံဃာများ**။ ။ တွေ့ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ အေး...ဒါနှင့်ပတ်သက်လို့ ပီပီသသ ဟောပြထားတာ နောက်ထပ် ရှိသေးတယ်ကွဲ့၊ ဘယ်လိုလဲဆိုတော့...

## "ရွှေငွေအပ်လျှင် ကာမဂုဏ်လည်း အပ်"

ဗုဒ္ဓလက်ထက်တော်က... တစ်နေရာ၌ စုဝေး စကားပြောနေကြရာမှ စကားတစ်ခု ဖြစ်လာတယ်၊ ယင်းမှာ "ဗုဒ္ဓသာဝက ရဟန်းတော်များမှာ ရွှေငွေ အပ်တယ်၊ ရွှေငွေကို သာယာကြတယ်၊ ရွှေငွေကို အလှူခံကြတယ်"ဟူသော စွပ်စွဲချက်ပင် ဖြစ်၏၊ ထိုအခါ မဏိစူဠကမည်သော စစ်သူကြီး (စစ်ဗိုလ်ကြီး)က "ဒီလို မပြောကြပါနှင့်၊ ရဟန်းတော်များမှာ ရွှေငွေမအပ်ပါဘူး၊ မသာယာကြပါဘူး၊ ရွှေငွေကို အလှူမခံကြပါဘူး"ဟု ကန့်ကွက်ရတော့သည်။

ထို့နောက် စစ်သူကြီးက ဗုဒ္ဓအထံတော်သို့ လာပြီးလျှင် မိမိကန့်ကွက် ပြောဆိုခဲ့သော အချက်များ ဟုတ်/မဟုတ်၊ မှန်/မမှန် လျှောက်ထားကြည့်သောအခါ မြတ်စွာဘုရားက "ကန့်ကွက်ခဲ့တာတွေ အားလုံး မှန်တယ်"ဟု မိန့်တော်မူ၏၊ ထို့နောက် ဆက်လက်၍ "ရွှေငွေအပ်စပ်သူမှာ ကာမဂုဏ်ငါးပါးလုံး အပ်စပ်တော့၏"ဟု မိန့်တော်မူ၏။

ဆိုလိုရင်းမှာ "ရွှေငွေကိုတောင် ကိုယ်ပိုင်ခံယူသုံးစွဲသိမ်းဆည်းထားကောင်းလျှင် မိန်းမလည်း ယူကောင်းတော့မှာပေါ့"ဟု မိန့်တော်မူရင်း ဖြစ်၏၊ ဤကိစ္စမှာ ဤမျှလောက်ပင် အရေးကြီးလေသည်။ (သဠာယတနသံယုတ် ပါဠိတော် ဆ႒မ္မ၊ နှာ-၂၀၉၊ စူဠဝါပါဠိတော်-၄၉၄)။

## "အလှူခံနိုင်တဲ့ပစ္စည်းများ"

ထို့နောက် ဗုဒ္ဓရှင်တော်မြတ်က ဆက်လက်၍ "သို့သော်လည်း ကျောင်းမိုးဖို့ မြက်လိုလျှင် မြက်, သက်ကယ်လိုလျှင် သက်ကယ်၊ ကျောင်းဆောက်ဖို့ သစ်သားလိုလျှင် သစ်သားကိုတော့ အိမ်အနီးအပါး သွား (ဆွမ်းရပ်သလို ရပ်ပြီး) အလှူခံကောင်းပါရဲ့၊ "ဘာအလိုရှိပါသလဲဘုရား"လို့ မေးလျှင် "မိမိအလို ရှိတာကို ပြောကောင်းပါရဲ့"ဟု ဟောတော်မူ၏။

ထို့အတူ သစ်တိုက်ဖို့ လှည်းလိုလျှင် လှည်း, လုပ်ကိုင်ပေးမည့် လက်သမားယောက်ျားလိုလျှင် လက်သမားအတွက်လည်း ထို့အတူ ရပ်ကာ အလှူခံကောင်း၏၊ ရှာဖွေကောင်း, သိမ်းထားကောင်း သည်ဟု ငါဘုရား မဟော"တဲ့။

**ဆရာတော်**။ ။ ကဲ-ဘယ်လောက် တိကျပြတ်သား ထားသလဲ, တွေ့ကြပလား။

**သံဃာများ**။ ။ တွေ့ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ ရွှေငွေကို လုံးဝ အလှူခံခွင့်မရှိဘူး၊ ပစ္စည်းကိုသာ အလှူခံခွင့်ပေးတယ်။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ ကဲ-အားလုံးပြန်ပြီး အချုပ်အားဖြင့် ကောက်ချက်ချကြစို့၊ ရွှေငွေကို လုံးဝ အလှူခံခွင့် မပေးပေမယ့် ရွှေငွေမှဖြစ်ပေါ်လာတဲ့ အပ်စပ်တဲ့ပစ္စည်းကိုတော့ အလှူခံခွင့်/သုံးစွဲနိုင်ခွင့် ရှိတယ်ဆိုတာ ရာဇသိက္ခာပုဒ်, မေဏ္ဍကသိက္ခာပုဒ်တို့အရ မသိနိုင်ပေဘူးလား။

**သံဃာများ**။ ။ သိနိုင်ပါ အရှင်ဘုရား။

## "အပ်စပ်အောင် စီမံနည်းများ"

**ဆရာတော်**။ ။ အေး ... အဲဒီ သိက္ခာပုဒ်တွေကို ထောက်ထားပြီး ... ဝိနည်းကို လေးစားကြတဲ့ ဆရာ ဆရာတော်ကြီးများက ကပ္ပိယ ကျောင်းသားများနှင့် ရင်းနှီးသော ဒါယကာ ဒါယိကာမများကို ကြိုတင် သင်ကြားပေးထားတတ်ကြတယ်၊ အဲဒါကို မှတ်သားကြဖို့ မကောင်းဘူးလားကွဲ့။

**သံဃာများ**။ ။ ကောင်းပါ အရှင်ဘုရား။

**ဆရာတော်**။ ။ ကဲ ... ဒါဖြင့် နားစိုက်ထောင်ကြ၊ ဒါယကာ ဒါယိကာမ တစ်ဦး တစ်ယောက်သည် ငွေလှူဒါန်းဖို့ကိစ္စ ကြံလာပါက ထို ငွေကို ယူလာပြီးလျှင် (ဥပမာ ၁၀၀ိ ဆိုပါတော့)...

၁။ တပည့်တော် "မောင်ဖြူ" ထံ ၁၀၀ိ တန် အပ်စပ်သော ပစ္စည်းကို အလှူခံတော်မူပါ၊

၂။ ကပ္ပိယကိုလည်း ညွှန်ကြားတော်မူပါ၊

၃။ လုံခြုံရာ အရပ်ကိုလည်း ညွှန်ပြတော်မူပါ အရှင်ဘုရား။

ဤသို့လျှောက်ထား၍လည်း လှူဒါန်းနိုင်သည်။

(သို့မဟုတ်)

၁။ တပည့်တော် မောင်ဖြူထံ ငွေ ၁၀၀ိ မှ ဖြစ်ပွားလာသော အပ်စပ်သော ပစ္စည်းကို အလှူခံတော်မူပါ၊

၂။ ကပ္ပိယကိုလည်း ညွှန်ကြားတော်မူပါ၊

၃။ လုံခြုံရာ အရပ်ကိုလည်း ညွှန်ပြတော်မူပါ အရှင်ဘုရား။

ဤသို့လျှောက်ထား၍လည်း လှူဒါန်းနိုင်သည်။ အဓိပ္ပာယ် အတူတူပင် ဖြစ်၏။

ဤသို့လျှောက်ထား၍ လှူဒါန်းလျှင် ငွေ ၁၀၀ိ ကို လှူရာမရောက်, ၁၀၀ိ တန် ပစ္စည်းကိုသာ လှူဒါန်းရာရောက်သည်၊ အပ်စပ်၏။

အဲလို လျှောက်ထားလှူဒါန်းတဲ့အခါ အနီးအနားမှာ ရှိတဲ့ ကပ္ပိယရှိလျှင် "ဤသူသည် ကပ္ပိယပဲ"လို့ ရဟန်းက ကပ္ပိယကို ညွှန်ကြားနိုင်၏၊ (ဤသူအား ပေးထားခဲ့ဟူ၍ကား မပြောကောင်း။)

အနီးအနားမှာ ညွှန်ပြစရာ ကပ္ပိယမရှိလျှင်ကား "ဤနေရာ လုံခြုံသည်"ဟု လုံခြုံရာအရပ်ကို ညွှန်ပြကောင်း၏၊ (ဤနေရာမှာ ထားခဲ့ဟူ၍ကား မပြောကောင်း)၊ ဤသည်ကား လျှောက်ထားသူ၏ စကားအရ ဒုတိယအချက်နှင့် တတိယအချက်ကို ညွှန်ပြခြင်း ဖြစ်၏၊ ဤသို့ မူလပထမ လှူဒါန်းသူ၏ လျှောက်ထားချက်အရ ကပ္ပိယကို ညွှန်ပြလိုက်သောအခါ ကပ္ပိယက ထိုငွေကို ယူ၍ ရဟန်းအား

လျှောက်ထားသည့်အခါ ယခင်လို အချက်သုံးချက် ပါဖို့ မလိုတော့ပေ၊ နှစ်ချက်မျှဖြင့် ပြည့်စုံပြီ၊ ကပ္ပိယ က ထပ်ဆင့်လျှောက်ထားပုံမှာ (ဥပမာ မောင်ညို ဆိုပါတော့)...

**၁။ တပည့်တော် "မောင်ညို" ထံ ၁၀ဝိ တန် အပ်စပ်သော ပစ္စည်းကို အလှူခံတော်မူပါ၊**

**၂။ လုံခြုံရာ အရပ်ကိုလည်း ညွှန်ပြတော်မူပါ အရှင်ဘုရား-ဟူ၍ ဖြစ်၏။**

အဲလို လျှောက်ထားလိုက်လျှင် "ပဝါရိတ" ဖိတ်မန်အပ်သူ ဖြစ်သွားလို့ အလိုရှိတဲ့အခါ တောင်း ကောင်းပြီး ရဟန်းမှာလည်း အပ်စပ်သွားတော့၏၊ လှူဒါန်းသူများမှာလည်း အကျိုးရှိသွားတော့သည်။

ဒါကြောင့် ရဟန်းတော်များနှင့် အပ်စပ်အောင် ဒီနည်းကို လိုက်နာကျင့်သုံးကြပါ။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ အေး...ဒါလောက်ဆိုလျှင် ငွေကြေး ကိစ္စများနှင့်ပတ်သက်လို့ ဆောင် ရွက်ဖွယ်တွေ, အပ်စပ်အောင် လျှောက်ထားပုံတွေ, ကျင့်သုံးရပုံတွေ လုံလောက်ပါပြီ။

ကဲ...ဒီသင်တန်း အပြီးသတ်ကြစို့။

**သံဃာများ**။ ။ မှန်ပါ အရှင်ဘုရား။

# မြောင်းမြဆရာတော်ကြီး၏သင်ပြချက်

## အပ်စပ်အောင်ပြုသူ ကပ္ပိယ

၁၃၂၉ ခုနှစ် ဝါဆိုဦးက ဖြစ်၏၊ ဒသမမြောက် ရွှေကျင်သာသနာပိုင် မြောင်းမြဆရာတော်ဘုရားကြီး အမရပူရ ဂန္ဓာရုံသို့ ကြွလာတော်မူသည်၊ ထိုနှစ် သီတင်းကျွတ်လထဲတွင် ရန်ကုန်မြို့မှ ဦးမောင်ကြီး၏ အလှူတော် န၀ကမ္မကို အလှူခံရန်ကိစ္စ ရှိနေ၏၊ ဆရာတော်နှစ်ပါးလုံးပင် ဖြစ်သည်၊ ဆရာတော် အရှင်ဇနကာဘိဝံသကိုယ်တိုင် ကြွဖြစ်သည့်အခါ များတွင် နောက်ကပါမြဲဖြစ်သော ကပ္ပိယကာရက ဒါယကာကြီး ဦးကျော်ဝင်းက လက်ခံအပ်စပ်အောင် ကပ္ပိယဝေါဟာရဖြင့် လျှောက်ထားနေကျဖြစ်၏။

ကိုယ်တိုင်မကြွဖြစ်သည့်အခါများ၌ကား ရန်ကုန် တွင် နေထိုင်သော ဒကာထိန်ဝင်းအား ကပ္ပိယလွှဲ၍ ဒကာထိန်ဝင်းက လက်ခံပြီးလျှင် ကပ္ပိယဝေါဟာရ ဖြင့် အပ်စပ်အောင် လျှောက်ထားနေကျဖြစ်သည်၊ ထိုအချိန်ကမူ ဒကာထိန်ဝင်းသည် အထိန်းသိမ်းခံ နေရခိုက် ဖြစ်နေ၏။

သို့ဖြစ်၍ ဆရာတော် အရှင်ဇနကာဘိဝံသက မြောင်းမြဆရာတော်ကြီးအား "ဒကာ ကိုကိုလေး (ရန်ကုန် ကျောက်ကုန်း မဟာဗောဓိတိုက်မှ ကျောင်း ဒါယကာကို ဆိုလိုသည်။) ကပ္ပိယကာရကလုပ်ပြီး အပ်စပ်အောင် လျှောက်တတ်ပါရဲ့လားဘုရား"ဟု မေးလျှောက်ကြည့်၏၊ ဆရာတော်ကြီးက "လျှောက် တတ်ပါတယ်"ဟု ဖြေတော်မူသည်။

## အပ်စပ်အောင် ဤသို့လျှောက်

ထို့နောက် မြောင်းမြဆရာတော်ဘုရားကြီးက သူ့တပည့် ဒကာကိုကိုလေးထံ စာရေး၍ အကြောင်း ကြားတော့သည်၊ ဝါဆိုဦးက တောင်မြို့သို့ ရောက်ခဲ့ ကြောင်း, ဒါယကာ ကိုကိုလေး ကပ္ပိယကာရက လုပ်၍ လျှောက်တတ်/မလျှောက်တတ်မေးကြောင်း အကြောင်းရှိလျှင် ကပ္ပိယလွှဲချင်ပုံရကြောင်းတို့ကို ရေးသားပြီးလျှင် ဆရာတော်ကြီးက ဤသို့ မှာကြား တော်မူသည်။

"ဒါယကာကိုကိုလေး ကပ္ပိယဝေါဟာရဖြင့် လျှောက်တတ်မှန်းသိ၏၊ သို့သော် တိုတိုနှင့်လိုရင်းကို

လျှောက်တတ်ဖို့ရာ အကယ်၍များ ကပ္ပိယလွဲလျှင် အောက်ပါအတိုင်း စာဖြင့် ရေးသား၍ လျှောက်ထားပါ။

တပည့်တော် ကိုကိုလေးထံ ၃၀၀၀ိ တန် အပ်စပ်သော ပစ္စည်းကို အရှင်ဘုရား အလိုရှိသောအခါ တောင်းတော်မူပါ။

လုံခြုံရာအရပ်ကိုလည်း ညွှန်ပြတော်မူပါ။ ကပ္ပိယကိုလည်း ညွှန်းတော်မူပါ။

ဤသို့ မြောင်းမြဆရာတော်ဘုရားကြီးက ကိုယ်တော်တိုင် ရေးသား၍ မှာကြားသင်ပြတော်မူသည်။

## ငွေကိစ္စ ဘယ်လိုဆောင်ရွက်ကြ

ထို့နောက်ပိုင်းတွင် နဝကမ္မဂေါပကအဖွဲ့လူကြီးများက ဆရာတော်နှစ်ပါးလုံးထံသို့ ကပ္ပိယကာရကညွှန်းတော်မူကြပါဘုရား, ဘယ်နေ့ ဘယ်ရက်မှာ လှူဒါန်းကြပါမည်ဟု စာဖြင့် ဆက်ကပ်လျှောက်ထားကြ၏၊ သို့ဖြစ်၍ ဆရာတော် အရှင်ဇနကာဘိဝံသက ဒကာ ကိုကိုလေးထံ စာရေးရသည်။

"ဒါယကာ ဦးမောင်ကြီး၏ အလှူတော် နဝကမ္မကို လက်ခံမည့် ကပ္ပိယဒါယကာအဖြစ် ဦးကိုကိုလေးကို ဘုန်းကြီးက ကပ္ပိယကာရကဟု ညွှန်ကြားလိုက်ပါသည်၊ ၁၃၂၉ ခု သီတင်းကျွတ်လဆန်း ၅ ရက် (၈-၁၀-၆၇) တနင်္ဂနွေနေ့ နံနက် ၉ နာရီမှ ၁၀ နာရီအတွင်း ဝိုင်အမ်ဘီအေအသင်းတိုက်၌ နဝကမ္မလက်ခံမည့် ဒါယကာကို ဂေါပကလူကြီးများက စောင့်ဆိုင်းနေကြပါလိမ့်မည်။"

ဤသို့ အကြောင်းကြားထားသည်၊ မြောင်းမြဆရာတော်ကြီးကလည်း ဤသဘောပင် အကြောင်းကြားတော်မူ၏၊ ထို့ကြောင့် ဒါယကာ ကိုကိုလေးက အားလုံးဆောင်ရွက်ပြီးလျှင် ဆရာတော်များထံသို့ ကပ္ပိယဝေါဟာရဖြင့် စာရေးသားကာ ပြန်ကြားလျှောက်ထားလိုက်သည်။

ထိုအခါ ဆရာတော် အရှင်ဇနကာဘိဝံသက ဒါယကာ ကိုကိုလေးအား ချီးမွမ်း၏၊ "ဆရာကောင်း တပည့် ပီသ၍ ကပ္ပိယဝေါဟာရဖြင့် လျှောက်တတ်ခြင်း ဖြစ်သည်၊ ဝမ်းမြောက်ပါ၏၊ ကျောင်းတိုက်၌ ပြုလုပ်ဖွယ် ကိစ္စတွေအတွက် ရန်ကုန်ကို မှာတန်လျှင် မှာရဦးမည် ဖြစ်၍ အလိုရှိသောပစ္စည်းကို နောက်မှ တောင်းပါမည်၊ ကပ္ပိယညွှန်းဖို့ရန်လည်း နောက်မှ သင့်သလိုညွှန်းပါမည်၊ လုံခြုံမှုကိစ္စအတွက်လည်း ဒကာ ကိုကိုလေး ထံမှာပဲ လုံခြုံပါသည်"ဟု စာရေးလိုက်တော့သည်။

ဤသို့လျှင် အနာမာသ ငွေကြေးကိစ္စများနှင့် ပတ်သက်လျှင် ဝိနည်းလေးစားသော ဆရာတော်ကြီးများ မည်သို့ကျင့်သုံးတော်မူကြသည်ကို လေ့လာအတုယူနိုင်ပါရန် ဖော်ပြလိုက်ခြင်းဖြစ်ပါသည်။

## ကပ္ပိယကာရက ဒကာကြီးကျော်

"ဘယ့်နှယ်လဲ ဒကာကြီး... တစ်နေ့တုန်းက ဘုန်းကြီးပေးလိုက်တဲ့ ပါတိမောက်ဘာသာဋီကာ တော်တော်များများ ကြည့်ပြီးပလား၊ အရေးကြီးတာက ရဟန်းတွေနှင့် ပတ်သက်ပြီး ဒကာကြီးဘက်က အပ်စပ်အောင် ပြောဆိုရပုံတွေ, ဆောင်ရွက်ရပုံတွေကို ပိုပြီးကြေညက်အောင် ကြည့်ပါ။

"မှန်ပါ, တစ်ခေါက်ကုန်လို့ ကြေညက်အောင်ဆိုပြီး နောက်တစ်ခေါက် ပြန်ကြည့်နေပါတယ်ဘုရား။"

## ဒကာကြီးကျော်ရောက်လာခြင်း

ဆရာတော် အရှင်ဇနကာဘိဝံသက မေးသဖြင့် (နောင်အခါ) ဂန္ဓာရုံတိုက်၏ ကပ္ပိယကာရကကြီးဖြစ်လာမည့် ဒါယကာကြီးဦးကျော်ဝင်းက ဖြေနေခြင်းဖြစ်သည်၊ ဒါယကာကြီးဦးကျော်ဝင်းသည် မြေစာရင်းအင်စပက်တော် ပင်စင်ရအငြိမ်းစား ပုဂ္ဂိုလ်ကြီး ဖြစ်၏၊ မြေတိုင်းစာရေး တပည့်လက်သား အမြောက်အမြားနှင့်နေခဲ့ရသူ ဖြစ်၏၊ မျိုးရိုးလည်း မည့်, စိတ်ထားလည်း သန့်၍ ခံ့လည်း ခံ့သူဖြစ်၏၊ အရပ်က

ထောင်ထောင်မောင်းမောင်း, အသားခပ်ဖြူဖြူ, ခန္ဓာကိုယ်က မပိန်မဝ, မျက်နှာက ပေါ်ပေါ်လွင်လွင်, အောက်နှုတ်ခမ်းက တွဲတွဲနှင့် ယောက်ျားပီသသော ဥပဓိရုပ်ရှိ၏၊ တည်ငြိမ်၏၊ ခန့်ညားး၏၊ လေးစားဖွယ်ကောင်းနေသည်၊ ကျန်းမာရေးလည်း ကောင်းပုံရ၏၊ မွန်ရည်သော အပြောအဆို, ဖြူစင်သော နှလုံးသားနှင့် ဖြောင့်မတ်သော လက္ခဏာများလည်း ပေါ်လွင်နေသည်၊ အချိန်ကို အရေးထား၍ အလုပ်ကိုလည်း လေးစားဟန်ရှိ၏၊ ပစ္စည်းနေပြည့်စုံသူလည်း ဖြစ်၏၊ သူ၏ဇနီး ဒါယိကာမကြီးကမူ တရားထိုင်ဝါသနာပါ၍ ရိပ်သာသို့ သွားပြီးနေသည်၊ ဒါယကာကြီး ဦးကျော်ဝင်းက အမရပူရ ဂန္ဓာရုံသို့ ရောက်လာသည်၊ ထို့ကြောင့် မန္တလေးမြို့မှာရှိသော သူတို့ပိုင် ဝင်းခြံနှင့် တိုက်အိမ်ကို ပိတ်၍ ထားလိုက်ရ၏။

## ဘဝသံသရာက သွေးစပ်ခဲ့၍လော

လွတ်လပ်ရေးရပြီးစသာသာ ဆရာတော် အရှင်ဇနကာဘိဝံသက သာသနာတော်ကြီးကို မည်ကဲ့သို့ ပြုပြင်လိုက်မည်ဟူသော အားမာန်ဖြင့် "လက်တွေ့သာသနာ့ပျိုးခင်း"ကို ဂန္ဓာရုံ၌ ပျိုးထောင်ခါစတွင် ဒါယကာကြီး ဦးကျော်ဝင်း ရောက်လာသည်၊ ရောက်လာရခြင်း အကြောင်းရင်းမှာ သား ကိုရင်ငယ်တစ်ပါးရှိ၍ မာကြောင်း သာကြောင်း မေးရန်ဖြစ်၏၊ သားကိုရင်ကို တွေ့ဖို့ရန် ဆရာတော့်ထံ ဦးစွာဝင်၍ ခွင့်ပန်သည်၊ ထိုအခါ ဆရာတော်က ဒါယကာကြီးဦးကျော်ဝင်းအား နှစ်နာရီလောက် လက်ခံ၍ စကားပြောတော်မူ၏၊ မည်သို့မည်ပုံ ဘဝသံသရာက အဆက်ပါလာခဲ့ကြသည်မသိ၊ အဦးဆုံးတွေ့ရသောအခါမှာပင် ရွှန်းရွှန်းမြမြ ဒါယကာကြီးနှင့် လေပေးဖြောင့်၍ နေကြတော့သည်။

ဆရာတော်၏ အလေ့အထမှာ... ဧည့်သည်အာဂန္တုများနှင့် စကားကြာကြာ လက်ခံပြောလေ့မရှိ၊ အနည်းငယ် ကြောင်းကျိုးစုံရုံမျှ လက်ခံစကားပြောပြီးလျှင် "ကဲ-ဘုန်းကြီးမှာ စာရေးစရာ ရှိတယ်"ဟူ၍လည်းကောင်း, ဘုန်းကြီးမှာ စာချချိန်နီးပြီ"ဟူ၍လည်းကောင်း ပြောကာ နှင်လွှတ်တတ်၏၊ ယခုမူ ဒါယကာကြီး ဦးကျော်ဝင်းအတွက် အချိန်များစွာပေး၍ နေတော့သည်၊ ဆရာတော်ထက် ဒါယကာကြီးက ငါးနှစ်လောက် ကြီး၏၊ ထို့ကြောင့် "ဒါယကာကြီး ကျော်"ဟု ဆရာတော်က ခေါ်သည်။

## ပီတိလွှမ်း၍ ချမ်းမြေ့မြေ့

ဆရာတော်ထံမှ စကားပြောပြီး၍ သားကိုရင်ဆီသို့ လာသောအခါ ကိုယ်တော်များက ဝိုင်းအုံလာကြလျက် မေးကြတော့သည်။

"ဒကာကြီး...ဆရာတော်က ဘာတွေပြောလိုက်သလဲ? ကြာလှချည့်လား၊ ခါတိုင်းဆို ဘယ်သူ့ကိုမှ ဒီလောက်ကြာကြာ စကားလက်ခံပြောတာ မဟုတ်ဘူး၊ ဒကာကြီးကျတော့ ဘာလို့လဲမသိ, အခု အကြာကြီးပဲ လက်ခံစကားပြောနေတယ်"ဟု မေးကြသည်၊ ဒါယကာကြီးကလည်း "စုံလို့ပါပဲဘုရား, သာသနာရေးအကြောင်းတွေ, ဘာသာရေးအကြောင်းတွေ, သာသနာတော်ကြီးမှာ ဘယ်လို ပျက်စီးနေတယ်, ဘယ်လို ယိုယွင်းနေတယ်, ဘယ်လို ပြုပြင်မယ်, ဘယ်လိုကြိုးစားမယ်ဆိုတာတွေ အများကြီးပဲဘုရား" ဟူ၍ ပြန်လည် ဖြေရှင်းပြနေရသည်။

ဟုတ်ပါသည်၊ "ကိုယ်တော်တွေ ပြောသလို ဆရာတော်က ငါ့ကို တွေ့တွေ့ချင်း ရွှန်းရွှန်းဝေဝေ အကြာကြီး လက်ခံစကားပြောတော်မူနေတယ်၊ ရှေးတုန်းက ရင်းနှီးပြီးသားကြီးလိုပဲ၊ ပြောလိုက်တဲ့ ရည်ရွယ်ချက်တွေကလဲ မနည်းဘူး၊ လုပ်မယ်, ကိုင်မယ်, ကြိုးစားမယ်ဆိုတဲ့ အားမာန်တွေ အပြည့်နှင့် သူပြောတာတွေကို နားထောင်ခဲ့ရတုန်းကလဲ ငါ့မှာ စိတ်ချမ်းသာ ကိုယ်ချမ်းမြေ့ ပီတိတွေများတွေ့လို့, ဘဝင်တွေများ ခွေ့လို့, ငါ ဒီကနေ့ ဒီလာရတာ ချမ်းသာလှဘိခြင်း"ဟု ဒါယကာကြီး ဦးကျော်ဝင်းသည် ပြန်လည်အောက်မေ့၍ တမြည့်မြည့် ဖြစ်ရသည်ဟူ၏။

ဤသို့ဖြင့် အချိန်ကုန်အောင် ဂန္ဓာရုံ၌ နေပြီးမှ ညနေပိုင်းတွင် မန္တလေးသို့ ပြန်ခဲ့သည်။

## ကပ္ပိယကာရကကောင်းရှိဖို့လို

ဒကာကြီး ဦးကျော်ဝင်းသည် တစ်ဦးတည်းသော သားကိုရင်ကို ရဟန်းဖြစ်စေချင်၏၊ စာလည်းတတ်စေချင်သည်၊ လူ့ဘောင်မှာ ရှုပ်ထွေး၏၊ ဘေးဘယလည်းပေါသည်၊ ညွန်တောသဖွယ်ဖြစ်၏၊ ထို့ကြောင့် ဃရာဝါသ သမ္ဗာဓဟု ကိစ္စများမြောင် လူတို့ဘောင်တွင် မနေစေလို၊ ဘေးကင်း၍ အေးမြသော သာသနာတော်ဥယျာဉ်အရိပ်ကိုသာ ခိုလှုံစေချင်သည်၊ ဤသည်ကား မိဘတိုင်း၏ အာသာဆန္ဒသဘာဝပင် ဖြစ်၏၊ ထို့ကြောင့် သား ကိုရင်ကို အားပေး တိုက်တွန်းရန် ဂန္ဓာရုံတိုက်သို့ နောက်တစ်ခေါက် ရောက်လာရပြန်၏၊ အမှန်မှာ ဒကာကြီး ဦးကျော်ဝင်း၏ နှလုံးသားဝယ် သားသံယောဇဉ်သာမက ဆရာတော်၏ သံယောဇဉ်ပါ ငြိမှန်းမသိ ငြိတွယ်နေသည်ကို သူမသိချေ။

ဤဒုတိယအကြိမ်တွင်မူ ဆရာတော်က ဒါယကာကြီး၏ နေရေးထိုင်ရေး, မိသားစု၏အခြေအနေကိုပါ စုံစမ်းမေးမြန်းတော့သည်၊ "သားသမီးဆိုလို့ သည်ကိုရင်တစ်ပါးသာရှိကြောင်း" သိရတော့၏။

ဒါယိကာမကြီးကလည်း ရိပ်သာမှာ သွား၍ တရားရက်ရှည် အားထုတ်နေသည်၊ ဒါယကာကြီးက သူ့တစ်ယောက်တည်း အိမ်မှာ သူ့ထမင်း သူချက်စားနေ၏၊ အလုပ်မှလည်း အနားယူပြီး ဖြစ်နေသည်၊ ထို့ကြောင့် ဆရာတော်က အမိန့်ရှိတော့၏။

"ကဲ-ဒကာကြီးကျော် ... မန္တလေးမှာ ရှိနေတဲ့ ဒကာကြီးကျော်ရဲ့ ဝင်းခြံနှင့်အိမ်ကို သော့ခတ်ပိတ်ထားခဲ့၊ ဒီကို လာနေပါ၊ ဘုန်းကြီးရဲ့ သာသနာပြုလုပ်ငန်းကို ကူညီပါ၊ ဒကာကြီးက အပ်အပ်စပ်စပ်ဖြစ်အောင် ကပ္ပိယကာရက လုပ်ပေးပါ၊ သာသနာပြုတဲ့နေရာမှာ မအပ်မရာတွေနှင့် လျှောက်လုပ်နေရင်လည်း အပိုပဲ၊ ဘုရားအလိုတော်ကျ ဝိနည်းနှင့်အညီ ဖြစ်ဖို့ဆိုရင် နားလည်တဲ့ ကပ္ပိယကာရက ကောင်းကောင်း လိုပါတယ်၊ ဒါ့ကြောင့် ဒီကိစ္စအတွက် ဒကာကြီးကျော် ဒီရွှေ့လာဖို့ကိုပဲ ဆုံးဖြတ်ပါတော့"



ကပ္ပိယကာရက ဒကာကြီး ဦးကျော်ဝင်း

## ဆရာတော်နှင့်အမြဲတွဲဖက်၍

ဆရာတော်၏ စကားလုံးများသည် ဒကာကြီး ဦးကျော်ဝင်း၏ နှလုံးသား၌ ရွှမ်းရွှမ်းအိအိ ဝွမ်းဆီထိမျှ ဖြစ်ရတော့၏၊ အဘယ့်ကြောင့်ဆိုသော်"ဘုရားသာသနာတော်ကြီးကို ပြုစုရာတွင် ငါသည် ပါဝင်နိုင်သတဲ့, ငါသည် ကူညီနိုင်သတဲ့, ငါသည် ကပ္ပိယကာရကကြီး ကောင်းကောင်း ဖြစ်နိုင်သတဲ့"ဟု တွေးမိ၍ပင် ဖြစ်ပါသည်၊ သို့နှင့် ဤဂန္ဓာရုံတိုက်မှာ သား ရှိသည်ကလည်း တစ်ကြောင်း, ဝိနည်းနှင့် အပ်စပ်အောင် ပြုလုပ်ပေးရသည့် ကပ္ပိယကာရကကြီး ကောင်းကောင်းလည်း ဖြစ်နိုင်, ဒါယိကာမကြီးကလည်း ရိပ်သာမှာ တရားထိုင်နေသည့်အတွက် မိမိအဖို့ အကောင်းဆုံး အခွင့်အရေးကြီးကို ပိုင်တော့၏ဟု နှလုံးသွင်းကာ...

"မှန်ပါ, ရွှေ့လာပါတော့မယ်ဘုရား"ဟု လျှောက်ထားလိုက်တော့သည်။

ဒကာကြီး၏အဘိုးမှာ ရွှေကျင်ဆရာတော်ကြီးကို ကိုယ်တိုင်ကိုးကွယ်လိုက်ရသူ ဖြစ်၏။

ဤနည်းဖြင့် တတိယအကြိမ်တွင် ဒကာကြီး ဦးကျော်ဝင်းသည် အနည်းငယ်မျှသော အသုံးအဆောင် ပစ္စည်းကလေးများကို ယူလျက် အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်သို့ ပြောင်းရွှေ့လာခဲ့တော့သည်၊ ဆရာတော်ကလည်း အလွန်အားရကျေနပ်တော်မူလှ၍ "ရော့...ဒကာကြီးကျော်, ဟောဒီ ပါတိမောက် ဘာသာဋီကာကို ဖတ်စမ်းပါ" ဟု ပြောရင်း စာအုပ်တစ်အုပ်ကို ပေးခဲ့သည်၊ ထိုသို့ ပေးခဲ့သည့်အလျှောက် တစ်ပတ်လောက်ကြာသော အခါ ဘယ်လောက်များ ဖတ်ပြီးပြီလဲဟု သိလို၍ စောစောက တင်ပြခဲ့သည့်အတိုင်း ဆရာတော်က မေးမြန်းနေခြင်း ဖြစ်ပေသည်။

ဤသို့ ဝိနည်းကြောင်းနှင့်ပတ်သက်၍ နားလည်အောင် ဆရာတော်က ဝိနည်းစာအုပ်ကို ကြည့်စေခြင်း, လေ့လာစေခြင်း, ကိုယ်တော်တိုင်လည်း အခါအားလျော်စွာ အခွင့်သင့်သလို လက်ထပ် သင်ပြပေးတော်မူခြင်း, ဝိနည်းကြောင်းနှင့်ပတ်သက်သော ဝေါဟာရ အပြောအဆို အသုံးအနှုန်းကလေးများကို သင်ပြပေးတော်မူခြင်း စသည်ဖြင့် တစ်စ တစ်စ လေ့ကျင့်ပေးလာခဲ့၏၊ အတော်ကြာသောအခါ... ပြည့်ဝ စုံလင်သော ကပ္ပိယကာရကကောင်းကြီး တစ်ယောက် ဖြစ်လာရတော့သည်။

အနာမာသဝတ္ထုကြေးငွေနှင့် ပတ်သက်လာလျှင် အပ်စပ်မှုရှိအောင် တစ်ကျောင်းတိုက်လုံးအတွက် ဒကာကြီးကျော်က တာဝန်ယူ၏၊ မယိုမဖိတ်အောင်, မပျက်မပြယ်အောင်, မယွင်းမမှားအောင် စာရင်းဇယားနှင့်တကွ ကျကျနန စီမံတတ်ပေသည်။

အားလုံးစိတ်ချမ်းသာမှု ရှိအောင်လည်း သည်းညည်းခံ ဆောင်ရွက်တတ်ပေ၏၊ ဒကာကြီးကျော်အတွက် ငွေကြေးနှင့်ပတ်သက်သော နေရာများတွင် အပ်စပ်မှုရှိအောင် အထူးတာဝန်ထားသော်လည်း အခြားသော ကိစ္စတို့၌ပါ ဝင်ရောက် ဆောင်ရွက်တတ်ပေသည်။

ဥပမာ...ကျောင်းဆောက်ရာ၌ ဆရာတော်နှင့် ပူးတွဲ၍ စီမံခြင်း, ရှေ့ဆောင်ခြင်း, ဆရာတော်အား အကြံဉာဏ်များပေးခြင်း, ကျောင်းတိုက်သန့်ရှင်းရေးအတွက် ကိုယ်တိုင် တစ်တပ်တစ်အား ပါဝင်ဆောင်ရွက်ခြင်းများ ပြုလုပ်ပေး၏၊ ဆရာတော်ကလည်း ဒကာကြီးကျော်၏ အကြံဉာဏ်ပေးခြင်းများကို လေးစား၏၊ ဤသို့လျှင် ဆရာ တပည့် တွဲဖက်မိနေသည်။

## အားကိုးရသော ကပ္ပိယကြီးဖြစ်

အရေးကြီးသောကိစ္စများ ပေါ်ပေါက်လာလျှင် ဆရာတော်ကလည်း ဒကာကြီးကျော်ကို တိုင်ပင်တတ်၏၊ ဒကာကြီးကျော်ကလည်း စဉ်းစဉ်းစားစား နှိုင်းနှိုင်းချိန်ချိန် အကြံပေးဖော်ရ၏၊ ဆရာတော်က ဒကာကြီးကျော်၏ အကြံပေးချက်ကို ကြိုက်လျှင် ယူသည်၊ မကြိုက်လျှင် ပယ်သည်၊ သဘာဝကျလျှင် လက်ခံသည်၊ မကျလျှင် ကြောင်းကျိုးပြ၍ ပယ်တတ်သည်၊ ကပ္ပိယကာရက ဒကာကြီးကျော်နှင့်ဆရာတော်တို့မှာ ကျေနပ်စွာဖြင့် အလွန် အတွဲညီနေကြသည်။

ဆရာတော် ခရီးသွားဖို့ကိစ္စရှိလျှင် စီမံရသူမှာ ဒကာကြီးကျော်၊ လိုက်ပို့ရသူမှာလည်း ဒကာကြီးကျော်၊ ကြိုရလျှင်လည်း ဒကာကြီးကျော်၊ နောက်တော်ပါးက ကပ္ပိယကာရကအဖြစ် လိုက်ပါရမည်ဆိုလျှင်လည်း ဒကာကြီးကျော်ပင် ဖြစ်တော့၏။

ဤသို့လျှင် ဆရာတော်နှင့် ဒကာကြီးကျော်တို့သည် နှစ်ပေါင်း ၃၀ ခန့်မျှ တွဲဖက်ညီညီ သာသနာပြုလျက် ချီတက်လာခဲ့ကြပေသည်၊ ဒကာကြီးကျော်သည် ကျောင်းတိုက်ချဲ့ရန်အတွက် လမ်းနှင့်ကပ်နေသော မြေကေကိုပင် ဝယ်၍ လှူခဲ့လေသည်။

## သံဃာတော်များ၏အနာဂတ်ပညာရေး

### အခြေပျိုးနိဒါန်းလျှောက်ထား

"တပည့်တော် လျှောက်ထားပါရစေဘုရား၊ အခုဒီအစည်းအဝေးခန်းမကြီးထဲမှာ ရောက်နေကြတဲ့ ဆရာတော်ဘုရားကြီးများဟာဆိုရင် မိမိတို့ဆိုင်ရာဂိုဏ်းဂဏများရဲ့ ဦးစီး အကြီးအမှူး ပဓာန အရေးပါတဲ့ နာယကဆရာတော်များ ဖြစ်ကြပါတယ်ဘုရား၊ အခုအချိန်မှာတော့ ဆရာတော်ဘုရားများရဲ့ အရှိန်အဝါ၊ ဆရာတော်ဘုရားရဲ့ သီလ သမာဓိ ပညာတွေနှင့်မို့ နေသာပါသေးတယ်။

နောင်အနှစ် ၂၀ လောက်ဆိုလျှင်တော့ ဒီဆရာတော်ဘုရားကြီးများဟာ အကုန်လုံး ရှိကောင်းမှရှိကြပါတော့မယ်ဘုရား၊ ဒီတော့ကာ သာသနာ့တာဝန်တွေကို နောင်လာနောက်သား သံဃာများအပေါ် ပခုံးချင်းစောင်းပြီး ပြောင်းလွှဲခဲ့ကြရမှာပါဘုရား၊ အဲဒီအခါမှာ အခြေပျက် အနေပျက်မဖြစ်ဘဲ ဣန္ဒြေရရနှင့် အစစအရာရာ တည်ငြိမ်နေဖို့ရယ်၊ နောင်အနာဂတ်နှင့် လိုက်လျောမည့် မူစနစ်တွေကို လက်ဝယ်ရရှိသွားကြဖို့ရယ် ယခုနှယ်က ပြင်ဆင်ပေးကြရပါ့မယ်ဘုရား၊ အခု ဆရာတော်ဘုရားများနှင့် တပည့်တော်များက မူစနစ် ချပေးကြရပါမယ်ဘုရား၊ အဲလို "မူ"ချပေးရမယ့် လုပ်ငန်းများစွာ ရှိတဲ့အနက် သံဃာတော်များရဲ့ အနာဂတ် ပညာရေးအတွက် တပည့်တော်က အခုလို တင်ပြလျှောက်ထားချင်ပါတယ်ဘုရား၊ တင်ပြလျှောက်ထားခွင့်ပြုတော်မူကြပါဘုရား။

### ဦးစီးများ၏အစည်းအဝေး

အသံက ကြည်ကြည်အေးအေး နှုတ်ထွက်စကားလုံးက ဖြည်းဖြည်း၊ နောင်ရေးကို မျှော်တွေးသည့်ဟန်၊ ရင်တွင်းက ပူပန်နေသည့်ပမာ အထက်ပါအတိုင်း နိဒါန်း ပျိုးပြီး စကား ချီနေသူကတော့ အခြားသူမဟုတ်ပါ၊ ဆရာတော် အရှင် ဇနကာဘိဝံသပင် ဖြစ်ပါသည်။

အချိန်ကား ၁၃၂၆ ခု ဆောင်းဥတု ပြာသိုလ (၁၉၆၅ ခု ဇန်နဝါရီလ)၊ ဌာနကား ရန်ကုန်မြို့ ကမ္ဘာအေးကုန်းမြေ ပုဗ္ဗဝိဒေဟကျောင်းဆောင်ကြီး မြေညီထပ် ခန်းမကျယ်ကြီးအတွင်း။

ဂိုဏ်းအသီးသီး၏ဦးစီးခေါင်းဆောင် ဆရာတော်ဘုရားကြီး ၂၀ ပါးတို့သည် ယင်းခန်းမကြီးအတွင်း၌ စနစ်တကျ တည်ခင်းထားသော စားပွဲတန်းလျားရှည်ကြီးတစ်ခုတွင် အစီအစဉ်တကျ ဝိုင်းထိုင်၍ တည်ငြိမ်စွာ အစည်းအဝေး ကျင်းပနေကြပါသည်၊ မည်သည့်ကိစ္စအတွက်ပါနည်း။? သာသနာတော်ကြီးသန့်ရှင်းတိုးတက်ရေးကိစ္စအတွက် ဖြစ်သည်။

မှန်ပါ၏ ... ရန်ကုန်တိုင်း မှော်ဘီမြို့အနီး စိုက်ပျိုးရေး ဥယျာဉ်ခြံကြီး အတွင်းမှာ မကြာမီ တပေါင်းလပြည့်နေ့မှ စတင်၍ စည်းဝေးမည့် "ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးပွဲကြီး"အတွက် အကြိုညှိနှိုင်း စည်းဝေးတော်မူနေကြခြင်း ဖြစ်သည်။

ထိုအကြိုညှိနှိုင်းဆွေးနွေးပွဲကြီးတွင် သုဓမ္မာ၊ ရွှေကျင်၊ ဒွါရ၊ ငှက်စသော ဂိုဏ်းကြီးများမှ ဂိုဏ်း၏

အဓိပတိဂိုဏ်းခေါင်းဆောင် ဆရာတော်ကြီးများ ပါကြ၏၊ သုဓမ္မာဂိုဏ်းမှဆိုလျှင် အဘိဓဇမဟာရဋ္ဌဂုရု ပခုက္ကူအလယ်တိုက်ဆရာတော်ကြီး, ရွှေကျင်ဂိုဏ်းမှဆိုလျှင် ရွှေကျင်သာသနာပိုင် (ဝိသုဒ္ဓါရုံ) မြောင်းမြဆရာတော်ကြီး, ငှက်ဂိုဏ်းမှဆိုလျှင် စတုဘုမ္မိကနံရောဆရာတော်ကြီး စသည် စသည်ဖြင့် ဂိုဏ်းအသီးသီးမှ ပဓာန နာယက ခေါင်းဆောင်ဆရာတော်ဘုရားကြီးများ ပါရှိတော်မူကြ၏။

ဆရာတော်အရှင်ဇနကာဘိဝံသကား ထိုအကြိုစည်းဝေးပွဲကြီးတွင် သူတင်ပြလိုသော ပညာရေးမူကို လက်နှိပ်စက်ဖြင့် ရိုက်၍ စာကူးစက်ဖြင့် လှည့်ပြီး ဦးစီးဆရာတော်ကြီးများအား ဝေငှထားသည့်အပြင် နှုတ်မှလည်း အထက်ပါအတိုင်း ပြည့်စုံအောင် ဖြည့်စွက် ရှင်းပြ လျှောက်ထားနေသည်။

## ဘုရားရှင်နှင့်မြန်မြန်တွေ့ဖို့

ဆရာတော်၏မူအရ လိုရင်းအချုပ် ပဓာနမှာ စာသင်သားသံဃာတော်များသည် စာရိတ္တမကျိုးမယိမ်းမယိုင်ဘဲ ခိုင်ခိုင်မတ်မတ်ရှိရေး, ကိုယ်ကျင့်သီလ ပြည့်ဝရေးတို့အပြင် လွယ်လွယ်ကူကူနှင့် စာတတ်မြောက်ရေးပါ မူချ၍ ပြထားပါသည်၊ ထို့ပြင် ပထမငယ်, ပထမလတ်, ပထမကြီးဟူသော အခြေခံအဆင့်သုံးဆင့်ကို တစ်နှစ် တစ်တန်း အောင်ပါစေ၊ ကြိုးစားသူ မှန်လျှင် အောင်နိုင်လောက်အောင် လွယ်လွယ်မေးပါ၊ အချိန်မကုန်လွန်ပါစေနှင့်။

သို့မှသာ အထက်ပိုင်း ဓမ္မာစရိယတန်းသို့ ခပ်မြန်မြန်ရောက်ပါမည်၊ ထိုအတန်းတွင် ပါဠိတော်ကြီးများ, အဋ္ဌကထာကြီးများနှင့် တွေ့ရပါမည်၊ ပါဠိတော်ကြီးများကို လေ့လာရမှ ဘုရားနှင့်တွေ့ပါမည်၊ ဘုရားရှင်နှင့်တွေ့နိုင်သော စာပေမှာ ပါဠိတော်ကြီးများသာ ဖြစ်ပါသည်၊ ဘုရားနှင့်တွေ့ရမှ သဒ္ဓါတရားတွေ ထက်မြက်လာပါမည်။

ထိုဓမ္မာစရိယတန်းကို ကား တဖြည်းဖြည်းချင်း သင်ယူရပါမည်၊ တတ် မြောက်သည့်တိုင်အောင် သင်ယူရပါမည်ဟု ဆို ထား၏။

ဆရာတော်၏ တင်ပြလျှောက်ထားနေဟန်ကို အားလုံးက စိတ်ဝင်စားနေကြသည်၊ သဘောလည်းကျတော်မူကြဟန်ရှိ၏။

ထိုစဉ်တွင်... ဆရာတော်က ထူးခြားသည့် အစီအစဉ် တစ်ရပ်ကို ထပ်မံ တင်ပြပြန်သည်၊ အထက်ပိုင်း စာချတန်း ဖြေဆိုပုံ ဖြေဆိုနည်းအတွက် ဖြစ်၏။

## စာအုပ်ကိုပင် ကြည့်ဖြေပါစေ

"ဆရာတော်များဘုရား...ယခုအခါ ဖြစ်ပေါ်နေတဲ့ ပြဿနာမှာ စာဖြေတဲ့ အခါမှာ စာအုပ်ကို ခိုးကြည့်တယ်, စာအုပ်ထဲက ကူးချတယ်"ဆိုတဲ့အချက်ပါပဲ၊ ဒါကို အကြီးအကျယ် ဟန့်တား ချုပ်ချယ်နေကြရပါတယ်၊ အခု တပည့်တော် တင်ပြလျှောက်ထားမည့် အစီအစဉ်ကတော့ စာချတန်းကို ရောက်လျှင် စာအုပ်ကို ကြည့်ဖြေတဲ့နည်းပါပဲဘုရား။"

အထက်ပါစကား ဆုံးလျှင်ပင် အားလုံး ဦးစီးကိုယ်စားလှယ်ဆရာတော်ကြီးများက ဆရာတော်အရှင်ဇနကာဘိဝံသကို လှမ်း၍ ကြည့်ကြပါသည်၊ တင်ပြချက်မှာ ဆန်းလွန်းနေ၍ ဖြစ်ပါ၏၊ ဝိုင်း၍ ကြည့်ကြပါသည်၊ အံ့အားသင့်နေဟန်လည်း ရှိနေကြပါသည်။

ဆရာတော်က ဆက်လက်၍ အကြောင်းပြကို လျှောက်ထားနေပြန်၏။

"အခုလို စာအုပ်ကြည့်ဖြေရတယ်ဆိုတာ တပည့်တော်တို့ နိုင်ငံမှာသာ မရှိသေးတာပါ၊ တခြားနိုင်ငံတွေမှာ အထက်ပိုင်းစာမေးပွဲတွေဆိုလျှင် စာအုပ်ကြည့်ဖြေရတဲ့ နည်းစနစ်တွေ သုံးနေကြပြီလို့ ကြားရပါတယ်ဘုရား။

## တတ်သိဖို့သာ ပဓာနပါ

"တပည့်တော်များရဲ့ ဗုဒ္ဓမြတ်စွာဟောကြားတဲ့ ပါဠိတော်တွေဟာ များလည်းများ, နက်လည်းနက်, ခက်လည်းခက်သော အချက်တို့နှင့် ရောပြွမ်းနေလို့မို့ ဖြေဆိုတဲ့အခါမှာ နိဿယ မြန်မာပြန် ဂဏ္ဌိတို့မှ တစ်ပါး ပါဠိတော် အဋ္ဌကထာ ဋီကာ ယောဇနာ စာအုပ်များကို ကြည့်၍ ဉာဏ်ရှိသလို ဖြေခွင့်ပြုစေသင့်ပါတယ်ဘုရား။ ဒါမှ ဗုဒ္ဓမြတ်စွာရဲ့ အထက်တန်းတရားတော်များကို ခပ်မြန်မြန်သိရပြီး သဒ္ဒါ ပညာ ဝီရိယတွေ တိုးပွားတဲ့ ဆရာတော်များ ဖြစ်လာနိုင်ကြပါမယ်ဘုရား။"

ဆရာတော် အရှင်ဇနကာဘိဝံသသည် တင်ပြလိုသမျှကို ပွင့်ပွင့်လင်းလင်း တင်ပြလျှောက်ထားခွင့် ရ၍ အားရနေဟန် ရှိပေ၏၊ အခြားသော ဆရာတော်ကြီးများ၏ မျက်နှာအခြေအနေတို့ကိုလည်း တစေ့တစောင်း အကဲခတ်နေဟန် ရှိပေ၏၊ အံ့အားသင့်နေတော်မူကြသည်ကိုလည်း သူကိုယ်တိုင် တွေ့မြင်နေရ၏။

ထို့ကြောင့် ပိုရှင်းလင်းအောင် ဆက်လက် တင်ပြလျှောက်ထားပြန်လေသည်။

## မေးပုံမေးဟန်က

"ကြည့်ဖြေ"ဆိုတာက ဒီလိုပါဘုရား, ပါဠိတော် တစ်ဝါကျကို ထုတ်ပြထား, အဲဒါကို အဋ္ဌကထာဖွင့် ကြည့်၍ အဓိပ္ပာယ် ဆိုလိုရင်း ဖော်ထုတ်ပါ, အနက်ပေးပါဆိုတဲ့ မေးနည်းမျိုး (သို့မဟုတ်) အဋ္ဌကထာ စကား တစ်ရပ်ကို ထုတ်ပြထား, အဲဒါကို ဋီကာ ကြည့်၍ အဓိပ္ပာယ် ယူဆပြပါဆိုတဲ့ မေးနည်းမျိုး ဖြစ်ရပါမယ်၊ ဒါမှသာ ပါဠိတော် အဋ္ဌကထာ ဋီကာတို့ကို သုံးတတ် စွဲတတ်ကြပါမယ်, ကြည့်ရှုတတ်ကြပါမယ်ဘုရား။

အဲလို ကြည့်ရှု သုံးစွဲတတ်ကြမှလည်း ရှင်တော်ဗုဒ္ဓ ဟောပြတော်မူထားတဲ့ တရားတော်တွေရဲ့ အနက်အဓိပ္ပာယ်ကို သိနိုင်ရေး, သိပြီး ကျင့်သုံးနိုင်ရေးဆိုတဲ့ လိုရင်းပန်းတိုင်သို့ မြန်မြန် ရောက်နိုင်ကြပါမယ်ဘုရား။

သို့မဟုတ်လျှင် ဓမ္မာစရိယအောင်သော်လည်း စာမကြည့်တတ်, စာမချတတ်, အဓိပ္ပာယ်မဖော်တတ် ဆိုတဲ့ အဆင့်က မတက်နိုင်အောင် ဖြစ်နေကြပါမယ်ဘုရား။

## ကျေနပ်၍ထောက်ခံကြ

စည်းဝေးခန်းမကြီးအတွင်းရှိ ဦးစီးဆရာတော်ကြီးများ အားလုံးလိုလိုပင် ပြုံးနေတော်မူကြပါသည်၊ တင်ပြချက်တို့ကို အားရတော်မူကြဟန်လည်း ရှိနေပါသည်၊ "ဒီလိုဆိုတော့လည်း အဟုတ်သားပဲ"ဟူသော အပြုံးမျိုး ရှိတော်မူနေကြပါသည်။

ထို့ကြောင့် အပြုံးဖြင့် ထောက်ခံတော်မူနေကြသည်ဟုလည်း ကောင်း, အချို့ဆရာတော်များကမူ တင်ပြချက်တစ်ခု ပြီးတိုင်း ပြီးတိုင်း ဖြည်းညှင်းစွာ ဦးခေါင်းတော်ကို ညိတ်၍ ညိတ်၍ လိုက်နေသည်ကို မြင်ရသဖြင့် ကာယကံမြောက် ထောက်ခံတော်မူနေကြသည်ဟု လည်းကောင်း သိနိုင်ပါသည်။

ထို့ကြောင့် ဆရာတော်ကြီး အများစုက ကျေနပ်ထောက်ခံတော်မူကြသည်ဟု သိရသဖြင့် ဆရာတော်အရှင် ဇနကာဘိဝံသလည်း ဝမ်းမြောက်တော်မူနေဟန် ရှိပါသည်။

မိမိ တင်ပြချက်များ ထမြောက်အောင်မြင်တော့မည်ဟု တွေး၍ ရင်ထဲ အေးနေဟန် ရှိပါသည်၊ စိတ်အာရုံမြူး၍ ကြည်နူးနေဟန်လည်း ရှိပါသည်၊ သို့သော် ကြာကြာကြည်နူးလိုက်ရဟန် မတူပါ။

## ကန့်ကွက်သူပေါ်လာခဲ့၍

"အေးပေါ့လေ… ဦးဇနက တင်ပြတဲ့မူတွေဟာ မဆိုးပါဘူး ဒါပေမယ့် ခုချိန်မှာ စောပါသေးတယ်၊ နောက်တော့ သင့်တော်တဲ့အခါ စဉ်းစားကြတာပ၊ အခုအချိန်မှာတော့ ပိုပြီးအရေးကြီးတဲ့ ကစ္စတွေကို ဆောင်ရွက်ဖို့ စဉ်းစားကြပါဦး၊ အဲဒီ ပညာရေးမူကို ခေတ္တ ရပ်ထားပါဦး"။

ဤသို့ ဆရာတော် တစ်ပါးက ဟန့်တားမှု၊ ကန့်ကွက်မှုကြောင့် ဆရာတော် အရှင်ဇနကာဘိဝံသမှာ ကြည်နူးမှုအလျဉ်၊ ရွှင်မြူးမှုအလျဉ် ချက်ချင်းပင် ပျက်ပြယ်ကုန်ရဟန် တူပါသည်၊ ဆရာတော်၏ ဇာတာ, ဆရာတော်၏ ကံကြမ္မာက ဤအတိုင်းပင် ဖြစ်တတ်ပါသည်၊ ငယ်စဉ်မှစ၍ တစ်ဘဝလုံးလိုလို အတိုက်အခံနှင့်ချည်း တွေ့လာရတတ်ပါသည်။

အထက်ပါ ကန့်ကွက်ချက်ကား နှယ်နှယ်မျှ အကျိုး ဆုတ်ယုတ်စေသည် မဟုတ်, များစွာအကျိုးမဲ့ ဖြစ်သွားစေပါသည်၊ နောင်လာမည့် အနာဂတ် သံဃာတော်များအတွက် ခေတ်နှင့် လျော်သော အနာဂတ်ပညာရေးဗိမာန်ကြီး ပွင့်တော့မည့်ဆဲဆဲ တံခါးကို ဆွဲပိတ်၍ ဟန့်တားလိုက်သကဲ့သို့ ဖြစ်သွားစေတော့၏။

မည်သူ့ကို ထိသနည်း။? မည်သူတွေကို နစ်နာစေသနည်း။?

## အများအတွက်ကံကြမ္မာဖန်လာ

ဆရာတော် အရှင်ဇနကာဘိဝံသကား သာသနာတော်ကို အလွန်မြတ်နိုး၏၊ အမျိုးကိုလည်း ချစ်၏၊ ဘာသာကိုလည်း ခင်၏၊ ထို့ကြောင့် အချိန်ရှိသမျှ စဉ်းစား၏၊ အမျိုး, ဘာသာ, သာသနာ၏ တိုးတက်ရာ နည်းလမ်းကို ညွှန်ပြ၏၊ ထိုအခါ ကန့်ကွက်သူ ပေါ်လာတတ်လေသည်၊ ကန့်ကွက်သူပေါ်၍ အလုပ်မဖြစ်သောအခါ မည်သူ နစ်နာသနည်း။?

အများ နစ်နာရ၏၊ ငှက်ကို ချိန်၍ လေးခွဖြင့် ပစ်သော်လည်း ငှက်ကို မမှန်ဘဲ သစ်ပင် ကိုင်းတက်ပင်စည်တို့ကို မှန်သလို အရှင်ဇနကာဘိဝံသကို ချိန်၍ ပစ်သော်လည်း အများကိုပင် မှန်တော့၏၊ အများပင် နစ်နာရတော့သည်။

ကန့်ကွက်သူကား လွယ်လွယ်ကလေးနှင့် ကန့်ကွက်လိုက်ခြင်း ဖြစ်သည်၊ သူ့မှာ အရင်းဘာမျှ မစိုက်ရ, ဉာဏ်ရည် ဉာဏ်စလည်း မသုံးရ, လွယ်လွယ်နှင့်ရ၍ ကန့်ကွက်လိုက်ခြင်းသာ ဖြစ်သည်။

ဆရာတော် အရှင်ဇနကာဘိဝံသမှာကား ကိုယ်အား ဉာဏ်အား လုံ့လအားတို့ဖြင့် ကြိုးစားပြီးမှရသော ညွှန်ကြားချက်တို့ ဖြစ်သတည်း။

## ပြဿနာတစ်ခုတက်၍လာခြင်း

ဤသို့လျှင် ဦးစီးဆရာတော်ကြီးများသည် ပုဗ္ဗဝိဒေဟကျောင်းဆောင်မှာ တည်းခိုသီတင်းသုံးရင်း သာသနာတော်၌ ပြင်ထိုက်သော ချွတ်ယွင်းချက်တို့ကို ပြုပြင်ရန်လည်းကောင်း, အသစ်ဖန်တီးထိုက်သော အလုပ်တို့ကို ဖန်တီးရန်လည်းကောင်း နေ့စဉ်နေ့တိုင်း အစည်းအဝေးထိုင်၍ တိုင်ပင်ဆွေးနွေးနေကြသည်။

တစ်ခုသောနေ့ နေ့လယ်အစည်းအဝေးတွင် ပြည်မြို့ ဇေတိကာရုံဆရာတော် ဦးတေဇနိယ (ပါဠိတက္ကသိုလ်ဗဟိုအဖွဲ့ကြီး၏ဥက္ကဋ္ဌ)က ဤသို့ တင်ပြလျှောက်ထားလေသည်။

"ဆရာတော်များဘုရား…ဒီကနေ့မနက် တပည့်တော်ထံကို သာသနာရေး တာဝန်ခံလာပါတယ်ဘုရား၊ (ထိုစဉ်က သာသနာရေးဝန်ကြီးဟု ဝေါဟာရဖြင့် မသုံးစွဲသေး၊) လာပြီးတော့ သာသနာရေး တာဝန်ခံက လျှောက်ထားပါတယ်၊ 'အရှင်ဘုရားတို့ ဖွဲ့စည်း တည်ထောင်ထားတဲ့ သာသနာရေးဆိုင်ရာ သံဃဝိနိစ္ဆယဌာနတွေဟာ ယခုအခါမှာ မကောင်းတဲ့ အနံ့အသက်တွေ, အနံ့ဆိုးတွေ ထွက်ထွက်နေပါတယ်ဘုရား' တဲ့။"

'ပြီးတော့ ပါဠိတက္ကသိုလ် ကိစ္စတွေကလည်း အပုပ်နံ့တွေ တလှောင်းလှောင်း၊ ယင်တွေ တအုံအုံ ဖြစ်နေကြပါကုန်ပြီဘုရားတဲ့၊ ဒီအတိုင်း ကြည့်နေကြတော့မလို့လားဘုရား'တဲ့။"

ပြည်ဇေတဝနာရုံဆရာတော်က ဤသို့ တင်ပြလျှောက်ထားလိုက်သောအခါ ဦးစီးဆရာတော်ကြီးများသည် တစ်ပါးကို တစ်ပါး အပြန်ပြန်အလှန်လှန် ကြည့်နေတော်မူကြသည်၊ တစ်ပါးမျှ မမိန့်မြွက်၊ အဆုံးအဖြတ်ပေးဖို့ ခက်နေသလော? မပြောတတ်၊ ကြိတ်ကြောင်တောင်နှင့် ခေတ္တမျှ ငြိမ်သက်သွားတော်မူကြ၏။

ခန်းမကြီးတစ်ခုလုံး တိတ်ဆိတ်သွားလေသည်၊ နောက်မှ ပြည် ဇေတဝနာရုံ ဆရာတော်ကပင် ဆက်လက်၍...

## အဆုံးအဖြတ်မပေးလိုကြ

"ဒီကိစ္စကို တပည့်တော် ဒီလို စဉ်းစားမိတယ်ဘုရား၊ ဒီဌာနတွေမှာ စာရေးစာချီတွေနှင့် လခစားပုဂ္ဂိုလ်တွေနှင့်မို့ 'ဝန်ထမ်းတွေကို ဖျက်သိမ်းလိုက်ပါ' ဆိုလို့ရှိရင် တပည့်တော်တို့မှာ သူတို့ လခတွေထိခိုက်ကုန်လို့ ဝိနည်းနှင့်မလွတ်ဘဲနေမှာ စိုးရပါတယ်၊ 'ဆက်လက်ထားပါ'လို့ တိုက်တွန်းလိုက်ပြန်ရင်လည်း အပုပ်နံ့တွေက ထွက်နေပြီလို့ ဆိုတယ်၊ ဒါကြောင့် တပည့်တော်တို့ ဒီအစည်းအဝေးကြီးက အဲဒီဌာနတွေကို 'ဖျက်သိမ်းပါ'လို့လည်း အမိန့် မပေးလို၊ 'ဆက်လက်ထားပါ'လို့လည်း မတိုက်တွန်းပါ၊ အဲဒီလိုပဲ အတည်ပြုကြပါစို့ဘုရား"၊ ဤသို့ လျှောက်ထားလိုက်သောအခါမှပင် ဦးစီးဆရာတော်ကြီးများသည် အသက်ဝင်လာကြပြီးလျှင် "ဟာ...ဟုတ်တယ်၊ ဟုတ်တယ်၊ ဇေတဝနာရုံ ဆရာတော်ပြောတာ ဟုတ်တယ်၊ အဲဒီအတိုင်းပဲ အတည်ပြုကြပါစို့ဘုရား"ဟူ၍ အများစုက မိန့်တော်မူကြသည်။

## တစ်နိုင်ငံလုံးဂယက်ရိုက်သွား

နေ့စဉ် နေ့တိုင်း နေ့လယ် တစ်နာရီမှ စတင်၍ ဆရာတော်ကြီးများ စည်းဝေးဆွေးနွေးမြဲ ဖြစ်သည်၊ ယင်းဆွေးနွေးချက်တို့ကို တိပ်ရီကော်ဒါ အသံဖမ်းစက်ဖြင့် ဖမ်း၍ အစိုးရဌာနသို့ ဆိုင်ရာတို့က ပို့ပေးကြ၏၊ ညနေပိုင်းတွင် စုဝိုင်း၍ အာဏာပိုင်တို့က နားထောင်နေကျ ဖြစ်သည်ဟူ၏၊ ယနေ့လည်း အစည်းအဝေး အပြီးတွင် ပို့ပေးလိုက်ကြလေပြီ၊ ယနေ့ကား တိပ်ခွေများအတွင်းတွင် ငရုတ်မီးပွားများ ပါသွားသလို ဖြစ်တော့၏၊ ည ၈ နာရီသတင်းအပြီးတွင် နိုင်ငံတော်အစိုးရက ကြေညာချက်တစ်ခု ထုတ်တော့သည်၊ ယင်းကြေညာချက်ကား...

"တစ်နိုင်ငံလုံး အာဏာ သက်ရောက်လျက်ရှိသော သံဃဝိနိစ္ဆယ ဥပဒေများ၊ ပါဠိတက္ကသိုလ် ဥပဒေများကို ဖျက်သိမ်းလိုက်သည်"ဟူသတည်း။

အားလုံး အံ့အားသင့်ကြရ၏၊ မျက်လုံးပြူးကြရ၏၊ ဦးစီးဆရာတော်ကြီးများကပင် "ဒီလောက် မြန်လိမ့်မယ်မထင်ခဲ့ဘူး"ဟုမိန့်ကြကာ အံ့အားသင့်နေကြပါ၏၊ တစ်နိုင်ငံလုံးအုန်းအုန်းကျွက်ကျွက် ဂယက်ရိုက်တော့သည်၊ မီးပွင့်လေတော့၏၊ မန္တလေးတို့လို ရန်ကုန်တို့လို မြို့ကြီးများ၌ ပိုစတာကြီးများဆွဲ၍ တိုက်ပွဲဝင်ကြသည်ဟု ကြားရ၏၊ သံဃာတော်များ အုံကြွ၍ အော်ကြ ဟစ်ကြသည် ဟူသတတ်။

## ပုစ္ဆာဆိတ်ငယ်ခေါင်းမှာလာ၍ရ

"အခုလို သံဃဝိနိစ္ဆယ ဥပဒေတွေနှင့် ပါဠိတက္ကသိုလ်ဥပဒေကို အစိုးရက ဖျက်သိမ်းတာဟာ ဦးဇနကလက်ချက်ပဲ၊ အခုအချိန်မှာ ဦးစီးဆရာတော်ကြီးတွေ ရန်ကုန် ကမ္ဘာအေးမှာ စည်းဝေးနေကြတယ်၊ အဲဒီထဲ ဦးဇနကလည်း ပါတယ်၊ ဦးဇနက တိုက်တွန်းလို့ အစိုးရက ဖျက်သိမ်းတာ ရှိမှာပဲ၊ ဟိုတစ်ချိန်တုန်းက ပါဠိတက္ကသိုလ်တွေ စတော့မယ်ဆိုတုန်းကလည်း ဦးဇနကက ကန့်ကွက်လာခဲ့တာပဲ၊

ပါဠိတက္ကသိုလ်တွေ ထောင်တာကို သူမကြိုက်ခဲ့ဘူး၊ အခု သူအခွင့်အရေးရတုန်း ဖျက်သိမ်းခိုင်းတာရှိမှာပဲ" စသည်ဖြင့် စွပ်စွဲကာ သူ့အပေါ်မှာချည်း ပုံချ၍ မဲကြ ဆဲကြ၏၊ ပုစ္ဆန်ဆိတ်ငယ်၏ခေါင်းမှာ လာ၍ စုတော့သည်။

ဟုတ်ပါသည်... ဆရာတော်အရှင်ဇနကာဘိဝံသက ပါဠိတက္ကသိုလ်တွေကို မကြိုက်ခဲ့တာ အမှန်ပါ၊ သို့ရာတွင် သာသနာတော်မှာ ပါဠိတက္ကသိုလ်တွေ ရှိတာကို မကြိုက်တာမျိုးမဟုတ်၊ စီမံကိန်းရေးဆွဲထားတဲ့ ပါဠိတက္ကသိုလ်စနစ်ကိုသာ မကြိုက်ခြင်းဖြစ်ပါသည်၊ ထိုအချိန်က ပါဠိတက္ကသိုလ် တစ်ခု တည်ထောင်လိုလျှင် "ဓမ္မာစရိယ လေးပါး ရှိရမယ်၊ ပထမကြီး အောင်ပြီး ဆယ်ပါးရှိရမယ်၊ အဲဒီ အင်္ဂါစုံရင် ပါဠိတက္ကသိုလ် ဖြစ်ကရော" ဤသို့သော မူစနစ်ဖြင့် တည်ထောင်ကြပြီးလျှင် စာချပေးရသော ဓမ္မာစရိယ ပုဂ္ဂိုလ်များသည် လခရကြ၏၊ ပထမကြီးအောင်ပြီး စာသင်သားများကို ကိုယ့်ဌာနမှာ ဆယ်ပါးမပြည့်လျှင် ဟိုကျောင်း ဒီကျောင်းကို လိုက်လံခေါ်ရ၏၊ သို့မဟုတ် ပါဠိတက္ကသိုလ်ချင်း ချေးငှားကြရ၏၊ အချို့စာသင်သားများဆိုလျှင် ဟိုပါဠိတက္ကသိုလ်မှာလည်း သူပါ၊ ဒီပါဠိတက္ကသိုလ်မှာလည်း သူပါမျိုး ဖြစ်လာကြတော့၏။

## ကြိုတင်မြင်၍ ကန့်ကွက်ခဲ့ခြင်း

သံဃာတော်များအတွက် ပါဠိတက္ကသိုလ်များ တည်ထောင်ကြတော့မည်၊ ဆိုခဲ့ပြီး အင်္ဂါရပ်များနှင့် ညီညွတ်လျှင် မည်သူမဆို ပါဠိတက္ကသိုလ် တည်ထောင်နိုင်၏၊ ဤမူစနစ်ကို သဘောတူ/မတူ တစ်နိုင်ငံလုံး မြို့ကြီးများသို့ လှည့်လည်၍ ဆန္ဒခံယူကြသောအခါ အရှင်ဇနကာဘိဝံသက ကန့်ကွက်ခဲ့၏၊ အစည်းအဝေးပွဲများသို့ တက်၍ ကိုယ်တိုင် နှုတ်ဖြင့်လည်း ကန့်ကွက်ခဲ့၏၊ သတင်းစာများမှ ရေးသား၍လည်း ကန့်ကွက်ခဲ့၏၊ ကလောင်နာမည် အမျိုးမျိုး သုံး၍ ရေးသားကန့်ကွက်ခဲ့သည်၊ တစ်ခါတလေ အရှင်ဇနကာဘိဝံသ၊ တစ်ခါတလေ တောဘုန်းကြီးကလေး၊ တစ်ခါတလေ သာသနာ့အရေး ရင်လေးမိသူ၊ တစ်ခါတလေ ဘုန်းဘုရားကြီး စသည်ဖြင့် အမည် အမျိုးမျိုးသုံးကာ ဝိုင်းဝန်း ရေးသားကြလေဟန် ဖန်တီးကန့်ကွက်ခဲ့၏၊ သို့သော် မရပါလေ၊ တစ်ပါးနှင့်အများ မဟုတ်ပါလော။

တစ်ခါသော်... ယင်းပါဠိတက္ကသိုလ်တည်ထောင်ရေးကိစ္စအတွက် အမရပူရမြို့ တူမောင်းကျောင်းတိုက်သို့ ဗဟိုကလာ၍ အစည်းအဝေးကျင်းပကြ၏၊ အရှင်ဇနကာဘိဝံသကိုလည်း ပင့်ဖိတ်ထားကြသည်၊ အရှင်ဇနကာဘိဝံသသည် "အကွက်ပေါ်လေပြီ၊ အခွင့်အရေး ရလေပြီ"ဟု အောက်မေ့ဟန်ရှိ၏။

ထို့ကြောင့် တောင်လေးလုံး ကျောင်းတိုက်မှ (ကိုပညာတို့၏ဆရာ) ဘုန်းတော်ကြီးနှင့် တတွဲတွဲ ကန့်ကွက်ဖို့ အားခဲ၍ စည်းဝေးပွဲတက်သွားကြလေ၏၊ မည်သို့ မည်ပုံ အခြေအတင် ပြောကြရသည်ဟုကား မသိရ၊ ကန့်ကွက်မရဘဲ ရှုံး၍ ပြန်လာကြပါသည်၊ ဘာတတ်နိုင်မည်နည်း?။

အရှင်ဇနကာဘိဝံသကား သူ့အမြင်တွင် ပျက်စီးကုန်မည့် အသွင်တွေကိုသာ မြင်နေရသဖြင့် ကြိုတင်ကန့်ကွက်နေခြင်းသာ ဖြစ်သတည်း။

## ထင်တဲ့အတိုင်း ပျက်ပြားလာခဲ့

မကြာပါလေပြီ၊ ပါဠိတက္ကသိုလ်တွေ အရှိုရှိ မှိုလိုပေါက်၍ အနှံ့အပြား ပြန့်ပွားလာလေပြီ၊ ဤသည်ကိုပင် အချို့က "သာသနာတော်ကြီး ထိန်ညီးထွန်းတောက်လာလေပြီ"ဟု ထင်ကြ၏၊ တက်တက်စင်လွဲလေပြီ၊ အရှင်ဇနကာဘိဝံသက ဤအခြေအနေများကို ကြိုတင်မြင်ထားပြီး ဖြစ်၏၊ ထို့ကြောင့် တဖွဖွ ပြောခဲ့သည်၊ "ယခု ပါဠိတက္ကသိုလ်တွေမှာ စာချပေးတဲ့ ဓမ္မာစရိယတွေဟာ လခရမယ်လို့ဆိုတယ်၊ အဲဒီက စပြီး မကြိုက်ပါဘူး၊ သာသနာတော်မှာ အစဉ်အလာအရ အခမဲ့ သင်တန်းပေးခဲ့ကြပါတယ်၊ အရှင်မဟာကဿပ, အရှင်ဥပါလိ, အရှင်သာရိပုတ္တရာ, အရှင်အာနန္ဒအစရှိတဲ့ မထေရ်ကြီးတွေဟာ

မိမိဆိုင်ရာတပည့်တို့အား ဝိနည်း၊ သုတ္တန်၊ အဘိဓမ္မာတွေ သင်ပေးခဲ့ကြတုန်းက လခ မရခဲ့ကြပါဘူး။

ဘုရားလက်ထက်တော်က စပြီး ဒီကနေ့တိုင်အောင် အခမဲ့သင်တန်းပေးလို့ အခမဲ့ပဲ သင်ယူခဲ့ကြရပါတယ်၊ သင်တန်းသား တပည့်ကလည်း အခမဲ့ သင်ခဲ့ရတာဆိုတော့ ဆရာ့အပေါ်မှာ အလွန်လေးစား ရိုသေခဲ့ကြပါတယ်၊ အခု လခယူပြီး သင်ကြတော့မယ်ဆိုတော့ ရမည့်အကျိုးတွေလည်း ပြောင်းပြန် ဖြစ်ကုန်တော့မှာပေါ့၊ စေတနာ မေတ္တာ ကရုဏာဆိုတာတွေလည်း ဘယ်မှာရှိတော့မလဲ၊ ဒီအခါ ဆရာကလည်း ဟိုတုန်းက စိတ်ထားလို ဟုတ်နိုင်တော့မှာ မဟုတ်ဘူး၊ တပည့်ကလည်း ထို့အတူပဲ၊ အဲဒါဟာ ပျက်ပြားလာဖို့ အကြောင်းပဲ။"

ဤသို့ အရှင်ဇနကာဘိဝံသက ကြိုတင်ဟောကိန်းထုတ်ခဲ့သည့်အတိုင်း တည့်တည့်ကြီး မှန်၍ မှန်၍ လာတော့၏၊ စာချဘုန်းကြီးများသည် ရှေးတုန်းကလို တပည့်တွေအပေါ် တတ်စေလိုသော စေတနာအပြည့်အဝ မဟုတ်လာတော့၊ "လခရလို့သာ စာချနေသည်"ဟူသော အသိက ဝင်နေချေပြီ၊ ထို့ကြောင့် တချို့နေရာတွေမှာ "ကိုယ်တော်တို့ ပြောတုန်း မှတ်ထားကြ၊ တော်ကြာလာမမေးနှင့်၊ မပြောတတ်ဘူး၊ တပည့်တော်လည်း လခရလို့သာ စာချနေတာ၊ ခုလောက်ပြောတတ်ဖို့ရာလည်း ခုနက မှ ကြည့်ထားတာ"ဟူ၍ နှုတ်ကပါ တိတိလင်းလင်း ဖွင့်ဟလာကြတော့သတတ်။

စာသင်သားနှင့်ပတ်သက်၍လည်း ရှေးအခါက စာလိုက်နိုင်သူဟူသမျှ အပိုင်းအခြားမရှိ မည်သည့် ကျောင်းကဖြစ်ဖြစ် မည်သူမဆို စာသင်ခန်းမတွင်းသို့ လွတ်လွတ်လပ်လပ် ဝင်နိုင် ထွက်နိုင် စာလိုက်နိုင်၏၊ ယခုကား မှတ်ပုံတင်ထားသော စာသင်သားမျှသာ ဝင်ရလေတော့၏၊ မဟုတ်လျှင် မဝင်ရ၊ ဆွဲထုတ်ခံရသည်၊ ပြီးလျှင် တံခါးပိတ်ထားသည်၊ အခြေအနေတွေ ပြောင်းလွဲခဲ့ပြီကော။

## မေတ္တာစေတနာခေါင်းပါးလာခြင်း

ဤသို့ဖြင့်... ဘုန်းတော်ကြီးကျောင်းများတွင် ဘုရားလက်ထက်တော်က စခဲ့သော အခမဲ့ပညာ သင်ကြားရေးစနစ်၊ မြန်မာပြည်အတွက်မူ ပုဂံခေတ်မှစ၍ ချမှတ်ခဲ့သော အခမဲ့ပညာ သင်ကြားရေးစနစ်ကို ပြောင်းပြန်လှန်၍ ကျင့်သုံးကြသောအခါ ဆရာနှင့် တပည့်တို့၏ ရှိသင့် ရှိထိုက်သော မေတ္တာ စေတနာ ကရုဏာတို့သည် တဖြည်းဖြည်းခေါင်းပါးလာကြတော့၏၊ မေတ္တာ စေတနာမပါသော ဟောပြော ပို့ချမှုသည်လည်း လျော့ရဲရဲ ဖြစ်လာကြတော့၏၊ ထိထိမိမိ မရှိလှတော့၊ တစ်ဖန် တပည့်တို့ဘက်ကလည်း "သူတို့ လခရလို့သာ သင်ပေးနေကြတာပါကွာ"ဟု ဆို၍ ဆရာ့အပေါ်မှာ ကျေးဇူးတင်ရန်မလို၊ မေတ္တာထားလျှင် အပိုဟု မြင်လာကြ ထင်လာကြတော့၏၊ ဘယ်မှာကောင်းနိုင်တော့မည်နည်း။?

ထိုအချိန် ထိုအခါ ဆရာတော် အရှင်ဇနကာဘိဝံသ၏ မဟာဂန္ဓာရုံကျောင်းတိုက်အတွင်းမှာပင် ပါဠိတက္ကသိုလ်ထောင်လိုပါက ဆိုခဲ့ပြီး ဂုဏ်အင်္ဂါတို့ အရ နှစ်ခုလောက် ထောင်နိုင်သော အရည်အချင်းရှိ၏၊ သို့သော် ဆိုခဲ့ပြီးသော အပြစ်တို့ကို မြင်ထားပြီး ဖြစ်၍ မထောင်ရ၊ ထောင်ခွင့် မပေးခဲ့၊ စာချဘုန်းကြီးများနှင့် တပည့်များကို နားလည်အောင် ဆရာတော်က ရှင်းပြထားလေသည်၊ ထို့ကြောင့် တင်းတိမ် ကျေနပ်၍ ငြိမ်းငြိမ်းခြံခြံ နေတတ်ကြပေသည်။

## ဖြစ်စေချင်သော တက္ကသိုလ်ကြီးမျိုးမှာ

ဆရာတော်အရှင်ဇနကာဘိဝံသက သံဃာတော်များအတွက် တက္ကသိုလ် ရှိသည်ကို မလိုလား၍ မဟုတ်၊ ရေးဆွဲထားသော မူစနစ်ကိုသာ မလိုလားခြင်း ဖြစ်သည်၊ အမှန်စင်စစ်သော်ကား ပါဠိကို ထိပ်တန်းရောက်အောင် သင်ပေးသော ပါဠိတက္ကသိုလ်မျှသာမက သက္ကတ၊ အင်္ဂလိပ်၊ ပြင်သစ် စသော

နိုင်ငံခြား ဘာသာရပ်များ, သိပ္ပံ, ပထဝီ, သင်္ချာ, မြန်မာစာ, အဘိဓမ္မာစသော ခေတ်အလိုက် တတ်သင့်သော ဘာသာရပ်များပါ စုံစုံလင်လင် ထိပ်တန်းရောက်အောင် သင်ပေးနိုင်သော နာလန္ဒတက္ကသိုလ်ကြီးတို့လို တက္ကသိုလ်ကြီးမျိုး သာသနာမှာ ရှိစေချင်သည်။

သို့သော် မှိုလိုပေါက်အောင် ပေါများလွန်းသည်ကိုလည်း မလိုလား၊ ရန်ကုန် မန္တလေးတို့လို မြို့ကြီးများ၌သာ ထိုက်ထိုက်တန်တန် ထည်ထည်ဝါဝါ ပြန့်ပြန့်ကျယ်ကျယ် လေးစားဖွယ်ဂုဏ်နှင့် ပြည့်ပြည့်စုံစုံ ရှိစေချင်သည်၊ သင်ကြားပေးသည့်စနစ်ကိုလည်း ကိုယ်ကျင့်ဝိနည်း မပျက်ပြားစေဘဲ သဒ္ဓါတရားကို အခြေခံ၍ သီလ သမာဓိတွေ တိုးတက်အောင် စီစဉ်ပေးသောနည်းစနစ်မျိုးကိုသာ လိုလားတော်မူသည်။

## သံဃာများအတွက်သံဃာ့တက္ကသိုလ်

ထိုတက္ကသိုလ်ကြီးမျိုးကို သံဃာတော်များ၏ ပညာစုံသင်ကြားရာဖြစ်သောကြောင့် "သံဃာ့တက္ကသိုလ်"ဟု ဆရာတော်က အမည်မှည့်လို၏၊ ရန်ကုန်မှာဖြစ်လျှင်"သံဃာ့တက္ကသိုလ်(ရန်ကုန်)"ဟူ၍လည်းကောင်း, မန္တလေးမှာဖြစ်လျှင်"သံဃာ့တက္ကသိုလ်(မန္တလေး)"ဟူ၍လည်းကောင်း အထူးပြု၍ ခေါ်စေလိုသည်၊ အထက်တန်းသို့ ရောက်လာသော သံဃာတော်များသည် ထိုသံဃာ့တက္ကသိုလ်ကြီးများမှ သင်ကြားပြီးလျှင် ဘာသန္တရကျွမ်းကျင်သူတို့က နိုင်ငံခြားသို့တိုင်အောင် သာသနာတော် ပြန့်ပွားရေးကို ကြိုးစားစေလို၏၊ ထိုမျှလောက် မစွမ်းနိုင်သူတို့က မြန်မာပြည်တွင်းမှာ တောရွာအနှံ့ ဖြန့်လျက် ကျောင်းထိုင်ကြပြီးလျှင် ကလေးသူငယ်တို့အား ဘာသာ စာရိတ္တ ယဉ်ကျေးမှုများနှင့်တကွ အခြေခံပညာရပ်များကို သင်ကြားပေးဖို့ ဖြစ်၏၊ ဤသို့စီမံကိန်းချ၍ လုပ်လိုက်ရပါလျှင် ဘာမျှ ကြာလိမ့်မည်နည်း? ဤသို့နှယ် မြန်မာနိုင်ငံပေါ်ဝယ် ဗုဒ္ဓသာသနာတော်ကို အထွတ် တင်လိုက်ရပါလျှင် ကမ္ဘာတွင် "ပေါ်လွင် ထင်ရှားသောနိုင်ငံ" "ချမ်းသာအေးမြသောနိုင်ငံ" ဧကန်ဖြစ်ရမည်သာတည်း၊ ဤသည်ကား ဆရာတော် အရှင်ဇနကာဘိဝံသ၏ မျှော်မှန်းချက်အိပ်မက်တို့သာ ဖြစ်ကြ၏၊ သူ့အိပ်မက်ကား အစိုးရ၏အကူအညီရမှသာ အကောင်အထည်ပေါ်နိုင်မည်ဖြစ်သည်၊ ဤသို့ဖြင့် ဆရာတော် အရှင်ဇနကာဘိဝံသမှာ အချိန်ကို စောင့်၍ အိပ်မက်မက်ရင်းပင် မိုးလင်းရလေတော့သည်။

# သမိုင်းဝင် မော်ဘီသံဃာ့အစည်းအဝေးကြီး

## စိမ်းလမ်းချမ်းမြေ့ မော်ဘီဥယျာဉ်ဝယ်

ဦးစီးဆရာတော်ကြီးများသည် အကြို ညှိနှိုင်းဆွေးနွေးပွဲပေါင်းများစွာကို ကျင်းပတော်မူကြ၏၊ အဓိက မော်ဘီအစည်းအဝေးကြီးကိုကား ၁၃၂၆ ခု တပေါင်းလပြည့် (၁၉၅၆ ခု မတ်လ ၁၇ ရက်) နေ့မှစတင်၍ ကျင်းပဖို့ရန် ဆုံးဖြတ်တော်မူကြသည်၊ တဖြည်းဖြည်းနှင့် တပေါင်းလပြည့် ရက်နားသို့ နီးကပ်လာလေပြီ၊ ရန်ကုန်တိုင်း မော်ဘီမြို့၏မြောက်ဘက် မနီးမဝေး, စိမ်းစို၍ အလွန်ကျယ်ပြန့်သော စိုက်ပျိုးရေးဥယျာဉ်ခြံ မြေကွက်ကြီးအတွင်း သံဃာတော်များအတွက် ဝါးတဲ ကျောင်းကြီးများကို အစီအစဉ်တကျဆောက်လုပ်ကြလေပြီ၊ သောက်ရေအိုးစဉ်များ, ရေချိုးခန်းများနှင့် ကုဋီများပါ အသင့်ဆောက်လုပ်ထားကြ၏၊ ဥယျာဉ်ကြီး၏ အလယ်ဗဟိုတွင်ကား သံဃာတော် ၂၃၀၀ ဆံ့ စည်းဝေးခန်းမမဏ္ဍပ်ကြီး, ထိုနှင့် မနီးမဝေးတွင် ထိုသံဃာတော်များ ဆံ့လောက်အောင် ဆွမ်းစားမဏ္ဍပ်ကြီး ဤသို့ အသီးသီးဟည်းနေအောင် သစ်သား, ဝါး,ဓနိတို့ဖြင့် စနစ်တကျ တည်ဆောက်ထားကြလေသည်၊ ဗဟိုစည်းဝေးခန်းမ မဏ္ဍပ်ကြီးကို သကြားပင်ပျို

များစွာ၏ အောက်တွင် တည်ဆောက်ထားသဖြင့် သကြားပင်ပျိုတို့၏ ပင်စည် ခက်မ အခွ အကိုင်း အရွက် အရိပ်တို့က မိုးနေသဖြင့် "သကြားသာသနာ ရောက်တော့မှာလိုလို" အချို့က ပြောဆိုကြသေး၏၊ သို့သော် အလုပ်ကြိုးစားမှု, ညီညီညွတ်ညွတ်ဖြင့် ဆောင်ရွက်မှုတို့သာ ပဓာနမဟုတ်ပါလော။

အစည်းအဝေး တက်ရောက်မည့် သံဃာတော် အားလုံး ထိုဥယျာဉ်ခြံကြီးသို့ တပေါင်းလဆန်း ၁၄ ရက်နေ့ ညနေကပင် စုံလင်အောင် ရောက်နေကြလေပြီ၊ ယင်းအဖိတ်နေ့ ညနေတွင် နောက်တစ်နေ့ လပြည့်နေ့မှာ ဥပုသ်ပြုဖို့ရာ တစ်နေရာ၌ ဝိသုံဂါမ အမိန့်ခံ၍ သိမ်သမုတ်တော်မူကြ၏၊ အများအားဖြင့် ယင်းသိမ်မှာ ဥပုသ်ပြုကြသည်၊ ရွှေကျင်သာသနာပိုင် မြောင်းမြ ဆရာတော်ကြီး အမှူးရှိသော ရွှေကျင် ဆရာတော် သံဃာတော်များကား ရန်ကုန်မြို့ ကျောက်ကုန်း မဟာဗောဓိကျောင်းတိုက်သို့ ပြန်၍ ဥပုသ်ပြုတော်မူကြသည်။

## အစည်းအဝေးကြီးစတင်ကျင်းပ

၁၃၂၆ ခု တပေါင်းလပြည့်နေ့ နေ့ ၁၂ နာရီတွင် စတင်၍ သာသနာတော်ကြီး၌ ထူးခြားသော ဂိုဏ်းပေါင်းစုံ သံဃာတော်များ အစည်းအဝေးပွဲကြီးကို မှော်ဘီမြို့တွင် ကျင်းပကြ၏၊ ပထမနေ့တွင် အုပ်ချုပ်ရေး သွင်ပြင်များဖြစ်သော "ဂိုဏ်းအုပ် ဂိုဏ်းချုပ် ဂိုဏ်းထောက်"ဟူသော ရှေးမူစနစ်များကို တင်ပြကြ၍ ဆွေးနွေးကြ ညှိနှိုင်းကြ တိုင်ပင်တော်မူကြသည်၊ ညနေ လေးနာရီမှ ရုပ်သိမ်းကြသည်၊ ဒုတိယနေ့တွင် ပညာရေးကိစ္စများ, ဝိနိစ္ဆယဌာနကိစ္စများ ပြောကြဆိုကြ အဆိုတင်သွင်းကြ ထောက်ခံကြနှင့် အားရစဖွယ် ဖြစ်ပါပေ၏၊ ညနေ ၄ နာရီတွင်မှ ရုပ်သိမ်းတော်မူကြသည်။

တတိယနေ့တွင်ကား ... သာသနာဝင် ရဟန်းသာမဏေများ "သာသနာ့မှတ်ပုံတင်ကတ်ပြား" ကိုင်ဆောင်ရေးဟူသောအချက်ကို ဆွေးနွေးတိုင်ပင်ကြလေသည်၊ ဤကိစ္စနှင့်ပတ်သက်၍ ပြဿနာ အတက်ဆုံးဖြစ်၏၊ အချို့က "ရဟန်း သာမဏေများ ဤမှတ်ပုံတင်ကတ်ပြားကို မကိုင်ဆောင်သင့်, ကိုင်ဆောင်ဖို့ မလို"ဟု ဆိုကြ၏၊ အချို့က "ကိုင်ဆောင်သင့်သည်"ဟု ငြင်းခုန်လာကြသည်။

ညနေပိုင်းသို့ ရောက်လာသောအခါ တစ်ဖက်နှင့်တစ်ဖက် ပို၍ ပြင်းထန်လာကြသည်၊ စည်းဝေးခန်းမကြီးသည် စိုးရိမ်မကင်းစရာလို ဖြစ်လာတော့၏။

## စည်းဝေးပွဲရုပ်သိမ်းခြင်း

ဤအခြေအနေကို ကောင်းစွာ ခန့်မှန်းမိသော အခမ်းအနားမှူး(အကျိုးတော်ဆောင်)ဆရာတော်ကကြားဖြတ်၍ ကြေညာရတော့၏။

"အားလုံး ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား...ယခု အစည်းအဝေးပွဲကြီး ကျင်းပလာတာ သုံးရက်ရှိပါပြီ၊ ပြောကြ ဆိုကြ ညှိနှိုင်းကြတာတွေလည်း အတော်စုံလင်နေပါပြီ၊ မပြေလည်တဲ့ အချက်အလက် အနည်းငယ်မျှ ရှိပေမယ့် ပြေလည်တဲ့ အချက်အလက်တွေလည်း များစွာရှိပါတယ်၊ ပညာရေးနှင့် ဝိတ်သက်လို့ ဆိုရင်လည်း ငယ်လတ်ကြီး, မွေ့ာစရိယ အတန်းတိုင်းမှာပင် မြန်မာစာ ဂဏန်းသင်္ချာ စသည်တို့နှင့် မွှမ်းမံပြီး စိမ်ပြေဌာန်းချင်တဲ့ စနစ်သစ်သမားက အနည်းငယ်မျှသာပါ၊ မပြုမပြင်ဘဲ မူဟောင်း စနစ်ဟောင်းအတိုင်း သွားချင်တဲ့သူက ၉၉ ရာခိုင်နှုန်းလောက် ရှိပါတယ်၊ ဒီတော့ စိမံကိန်းအသစ်နဲ့ ပြုပြင်ချင်တယ်ဆိုတဲ့သူတွေဟာ ဆွမ်းဆန်ထဲ ကြွက်ချေးရောသလို တစ်တုံးနှစ်တုံးလောက်ပါ၊ ဒါကို ထောက်ဆခြင်းအားဖြင့် မူဟောင်းအတိုင်း ကြိုက်သူတွေက များပါတယ်လို့ ဆိုနိုင်ပါတယ်"။

ဤသို့လျှင် မိမိ တစ်ပါးတည်း ဆုံးဖြတ်ပိုင်ခွင့် မရှိသော အချက်အလက်တို့ကို တစ်ပါးတည်း



ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီး
မော်ဘီဥယျာဉ်အတွင်း ကျင်းပနေစဉ်



ကြို့တောင်ကြို့ခဲ့ အခွင်းအရေးကြီး
တစ်ခုတော့ လွတ်ကုန်ကြပြန်ပေါ့

ပြောဆို ဆုံးဖြတ်ပြီးလျှင် "အခု ဒီအစည်းအဝေးကြီး ဟာလည်း ညှိနှိုင်းဆုံးဖြတ်ဖို့ကိစ္စတွေ အားလုံးပြည့်စုံအောင် ညှိနှိုင်းပြီးပြီ ဖြစ်လို့ အခုအချိန်ကစပြီး ဒီ အစည်းအဝေးကြီးကို ရုပ်သိမ်းပါတယ်ဘုရား။"

"တစ်ဆက်တည်း လျှောက်ထားချင်တာကတော့ ဒီကနေ့ညနေပဲ သံဃာတော်များအားလုံးကို ရန်ကုန်သို့အရောက် ပြန်လည် ပို့ဆောင်ပါမည်၊ ကားများ အသင့်စီစဉ်ထားပါပြီဘုရား"ဟု ကြေညာလိုက်တော့သည်။

## တစ်ပြည်လုံးက ဆန္ဒများမှာ

မှော်ဘီအစည်းအဝေးကြီးမတိုင်မီကပင် သက်ဆိုင်ရာဌာနက တစ်ပြည်လုံးသို့ ဖြစ်ချင်သောဆန္ဒ၊ တင်ပြလိုသောအချက်၊ နှစ်သက်သောမှုတို့ကို တင်ပြပါရန် ရှင်လူရဟန်းအားလုံးထံ သတင်းစာမှနေ၍ ဆန္ဒတောင်းခံခဲ့၏၊ ထို့ကြောင့် ရှင်လူရဟန်းအားလုံးကလည်း စိတ်ဝင်တစား အကြံဉာဏ်များ ပေးခဲ့ကြ၏၊ နေထိုင်ရေး၊ အုပ်ချုပ်ရေး၊ ပညာရေးတို့ အစုံပါဝင်၏၊ ထို အကြံပေးချက် စာဟူသမျှတို့ကို သာသနာရေးဌာနက လက်နှိပ်စက်ဖြင့် ရိုက်၍ စာအုပ်အဖြစ် တွဲထားရာ နှစ်လက်မခန့်စီ ထူသော စာအုပ်ကြီး နှစ်တွဲ ရရှိ၏၊ ထိုစာအုပ်ကြီးများကို မှော်ဘီအစည်းအဝေးရက်များက မှော်ဘီကွင်းထဲတွင် အများ မြင်သာအောင် မြက်ခင်းပြင်ပေါ်၌ စားပွဲနှစ်လုံးပေါ်တင်၍ ပြသထားသည်၊ မည်သူမဆို ဖတ်ရှုလေ့လာဝေဖန်နိုင်ရန် ဖြစ်သည်။

ထိုစာအုပ်ကြီးနှစ်အုပ်ကို လှန်၍ ကြည့်ပါလျှင် ပညာရေးနှင့် ပတ်သက်၍ တစ်တိုင်းပြည်လုံးက ဖော်ပြသော အများ ဆန္ဒကို ပြက်ပြက်ထင်ထင် အလွယ်တကူ တွေ့မြင်နိုင်ပါသည်၊ အများအားဖြင့် အကြံပေးကြရာတွင် "သံဃာတော်များ၏ပညာရေးမှာ ယခုအခါ ခေတ်နှင့်မညီတော့ပါ၊ နောက်ကျနေပါပြီ၊ ခေတ်နှင့်ညီအောင် ပြုပြင်သင့်ပါပြီ၊ ငယ်၊ လတ်၊ ကြီး၊ ဓမ္မာစရိယအတန်းများ၌ ထိုက်သင့်သလို မြန်မာစာ၊ ဂဏန်းသင်္ချာ၊ ပထဝီ၊ သိပ္ပံ၊ အင်္ဂလိပ်စာ စသော ဘာသာရပ်များ ထည့်သွင်းစီစဉ်သင့်ပါပြီ" ဟူသော အာဘော်များက လွှမ်းလျက်ရှိပါ၏၊ သို့ရာတွင် အခမ်းအနားမှူးက အပြီးသတ်ကြေညာသော အခါ ပြောင်းပြန်ကြေညာပါတော့သည်၊ ထိုကြေညာချက်ကိုပင် ရေဒီယိုမှ တိုင်းပြည်သို့ အသံလွှင့်လေသည်၊ ဝမ်းနည်းဖွယ်ကောင်းလေစွ။

## အရှင်ဇနက စိတ်မောရ

မှော်ဘီအစည်းအဝေးကြီးမှ အပြန်တွင် ဆရာတော် အရှင်ဇနကာဘိဝံသမှာ စိတ်ကုန်လှုပန်း၍ မရွှင်လန်းအောင် ရှိရတော့သည်၊ "ဘယ့်နှယ်ပါလဲ ဘုရား၊ အစည်းအဝေးကြီးက သာသနာတော် အတွက် အကျိုးသက်ရောက်အောင် ပေးနိုင်ပါ သလားဘုရား"ဟု မေးလျှောက်ကြည့်သောအခါ "အင်း...သွားပြန်ပေါ့ကွဲ့၊ စိတ်မောစရာပဲ၊ ဒီလိုအခွင့် အရေးကြီး ကြုံဖို့ရာဆိုတာ မလွယ်ဘူးကွဲ့၊ အနှစ် လေးငါးဆယ်ရှိမှ တစ်ကြိမ်လို ပေါ်လာတတ်တာ၊ ပေါ်တုန်းပေါ်ခိုက်မှာ တို့ဘုန်းကြီးတွေက ညီညီ ညွတ်ညွတ်နှင့် မယူတတ်ကြတော့ အခုအခွင့်အရေး တွေ လွတ်ကုန်ကြပြန်ပေါ့ကွဲ့၊ တယ်ခက်သကိုး၊... သာသနာတော်ရဲ့မျက်နှာကို မကြည့်ကြဘူး၊ ပုဂ္ဂိုလ်ရဲ့ မျက်နှာကိုသာ ကြည့်ပြီး ကန့်ကွက်ကြ ဟန့်တားကြ လုပ်နေကြတော့ ခက်တာပေါ့ကွဲ့"တဲ့။

အရှင်ဇနကာဘိဝံသက စိတ်မောကိုယ်မောနှင့် ဆက်လက်ပြီး ပြောပြန်သည်၊ "လွန်ခဲ့တဲ့ အနှစ် လေးဆယ်ကျော် ငါးဆယ်နီးပါးလောက်တုန်းက တို့ ပဉ္စင်း ခပ်ရွယ်ရွယ်တုန်းကလည်း ဒီလို အခွင့်အရေးမျိုး တစ်ကြိမ် ပေါ်ခဲ့ဖူးတယ်ကွဲ့၊ ဒီတုန်းက အင်္ဂလိပ် အစိုးရက 'သံဃာတော်များ၏ ပညာရေးအတွက်

မိမိတို့ နှစ်သက်သလို ပြုပြင်ဖို့ရာ စည်းဝေးတိုင်ပင်ကြပါလို့'ဆိုတော့ မန္တလေး လေးပြင်လေးရပ်လုံးက သံဃာတော်များ စည်းဝေးတိုင်ပင်ခဲ့ကြတယ်၊ အဲဒီ အချိန်မှာ တို့ရဲ့ ကျေးဇူးရှင် အဘယာရာမဆရာတော်က 'ငယ်, လတ်, ကြီးအတန်းများရဲ့ ရှေ့က မူလတန်းတစ်တန်း တိုးပေးပါ'ဆိုတာရယ်, ပြီးတော့ 'အဲဒီအတန်းတိုင်းမှာ မြန်မာစာနှင့် ဂဏန်းသင်္ချာကို သင့်တော်သလို ခွဲဝေ ထည့်သွင်း ပြဋ္ဌာန်းပေးပါ' ဆိုတာရယ်၊ အဲဒီ အဆိုနှစ်ရပ်ကို အစည်းအဝေးမှာ တင်သွင်းခဲ့တယ်။

## ရှေ့ဆောင်တွေ ဘယ်ကထွက်သလဲ

ဒီအခါမှာ ဆရာတော်ကြီးခပ်များများက ဂဏန်းသင်္ချာဆိုတာတွေဟာ ခေတ်ပညာတွေပဲ၊ (နှစ်တစ်လီ နှစ်, နှစ် နှစ်လီ လေးဆိုတာတွေဟာ ခေတ်ပညာဖြစ်သွားပြီ၊ နော ဇေ နော, နဝ ဒွေ အဋ္ဌာ ဒသဆိုရင်တော့ ပါဠိလို ဖြစ်လို့ လောကုတ္တရာပါပဲ တဲ့) ခေတ်ပညာဆိုတာ တိရစ္ဆာနကထာ, မသင်ကောင်းဘူးဆိုပြီး ပယ်ချလို့ အဆိုတင်သွင်းချက်ဟာ မအောင်မြင်ခဲ့ပါဘူး၊ ဒါပေမယ့် အဲဒီ အစည်းအဝေးမှာပါတဲ့ (၁) အိမ်တော်ရာဆရာတော်တို့, (၂) ပေါက်မြိုင်ဆရာတော်တို့, (၃) မန္တလေး အရှေ့ပြင် မိဘမဲ့ ပရဟိတဆရာတော်တို့, (၄) မန္တလေးမြို့ အထက်က ဆည်သည်ရွာ မော်လမြိုင်ကျောင်းဆရာတော်တို့ ဆိုတာ ရှိတယ်၊ အဲသည် ဆရာတော်လေးပါးကတော့ 'တို့ကို ဘယ်သူကမှ အပေါင်းအသင်း မလုပ်လုပ်, တို့က တော့ ပညာရေးကိုခေတ်နှင့်ညီအောင် တည်ထောင်စီစဉ်ရမှာပဲ'ဆိုပြီး ကိုယ့်ကျောင်းဝင်းထဲ ကိုယ် အတန်းကျောင်းများ (လောကဓာတ်ကျောင်းများ) တည်ထောင်ကြတော့တယ်၊ အဲ...အနှစ်လေးငါးဆယ်လောက်ကြာတဲ့ အခုအချိန်မှာ စွမ်းစွမ်းတမံနှင့် တိုင်းပြည်ခေါင်းဆောင်နေတဲ့သူတွေကို ဘယ်ကျောင်းက ထွက်လာခဲ့သလဲလို့ မေးကြည့်လျှင် အဲဒီ ဆရာတော်လေးပါးကျောင်းတွေက ထွက်လာတဲ့သူတွေပဲ တွေ့ရတယ်၊ ဟို...တိရစ္ဆာနကထာ မသင်ကောင်းဘူးလို့ ဆိုတဲ့ ဆရာတော်တွေရဲ့ကျောင်းက တစ်ယောက်မှ မပေါ်လာကြဘူး၊ အဲဒါပဲ ကြည့်ပေတော့'တဲ့။

## အနှစ်တစ်ရာမှ တစ်ကြိမ်ပေါ်သလို

"အဲလို အစိုးရက ပေးတဲ့ အခွင့်အရေးဆိုတာ အနှစ် လေးငါးဆယ်လိုကြာမှ တစ်ကြိမ်, အနှစ်တစ်ရာရှိမှ တစ်ကြိမ်လို ပေါ်တတ်တာ၊ ဟိုတုန်းကလည်း တစ်ခါပေါ်လာခဲ့တယ်၊ မအောင်မြင်ခဲ့ဘူး၊ အခုတစ်ခါ ပေါ်ပြန်တော့လည်း မအောင်မြင်ပြန်ဘူး၊ သွားပြန်ပြီ၊ စိတ်မောစရာပဲ၊ အောင်အောင်မြင်မြင် ပြုနိုင်ဖို့ဆိုတာ အစိုးရကပါ အခွင့်အရေးပေးမှ ဖြစ်နိုင်တာ၊ အခု အစိုးရက ပေးနေပြီ၊ ဒီလို အခွင့်အရေးမျိုးက အနှစ်တစ်ရာကြာမှ တစ်ခါသာ ပွင့်တဲ့ နတ်ပန်းလို ပေါ်လာခဲ့တယ်၊ အခုလို ပေါ်တုန်းပေါ်ခိုက်မှာ အခွင့်အရေးကို မလွတ်တမ်းရအောင် ဖမ်းယူကြမယ်, ဆုပ်ကိုင်ကြမယ်လို့... သဘောမထားကြဘူး၊ ခက်တယ်"တဲ့။

ဤသို့လျှင် ဆရာတော် အရှင်ဇနကာဘိဝံသမှာ စိတ်မော ကိုယ်မောဖြင့် အနာဂတ်သာသနာတော်အတွက် ရင်မအေးအောင် ရှိရသော်လည်း ပတ်ဝန်းကျင် သံဃာအချို့ကား သူ့ကိုပင် တစ်မျိုးထင်, အမြင်မကြည်လင်အောင် ဖြစ်နေကြတော့သည်။

သူ့ကိုပင် အဖျက်သမားဟု ထင်နေကြတော့၏၊ ထင်အောင်လည်း လမ်းကြောင်း လှုံ့ဆော်ပေးနေသူများ ရှိကြသည် ဆို၏။ ။

## နန္ဒောပနန္ဒကြီးကိုက်လိမ့်

"ပါဠိတက္ကသိုလ်ဥပဒေတွေကို ဖျက်သိမ်းသည်" ဟု အစိုးရက ကြေညာပြီးသည့်နောက် မန္တလေးတစ်ခွင်တွင် ဟောပြောပွဲများနှင့် ယှဉ်၍ ပိုစတာကြီးများဆွဲပြီး တိုက်ပွဲဝင်ခဲ့ကြသည်ဟူ၏၊ ထိုဟောပြောပွဲများ၌ အရှင်ဇနကာဘိဝံသကိုပင် ဦးတည်တိုက်ကြ အပြစ်ပြောကြ အမနာပဆိုကြသည်ဟူ၏၊ ထိုအထဲတွင် ကိုယ်တော်တစ်ပါးက ဤသို့ ဟောပြော၏။

"အရှင်ဇနကာဘိဝံသက သူ့ပြုပြင်ရေး စာအုပ်တွေထဲမှာ ရေးထားတယ်၊ 'စာသင်သားတွေဟာတဲ့ လာဘ်လာဘကို ငဲ့ပြီး စာသင်လျှင်တဲ့ (အလဂဒ္ဒူပမာ) မြွေဖမ်းနည်းဥပမာလို ဖြစ်တယ်တဲ့၊ မြွေကို ဖမ်းတဲ့အခါမှာ ဇက်ကို အုပ်ကိုင်ဖမ်းရမည့်အစား ခါးကို သွားကိုင်ဖမ်းတဲ့အတွက် ခေါင်းက နောက်ပြန်လှည့်ပေါက်သလို လာဘ်လာဘတွေက နောက်ပြန်လှည့် အပေါက်ခံရ အကိုက်ခံရမယ်တဲ့၊ အင်း... ဒီလိုဆိုရင် သူ့ကိုတော့ နန္ဒောပနန္ဒကြီး ကိုက်လိမ့်မယ်"တဲ့။

## အထင်အမြင်နှင့်တခြားစီ

ဤသို့လျှင် ဆရာတော် အရှင်ဇနကာဘိဝံသအပေါ် အားလုံးက ဝိုင်း၍ အပြစ်မြင်နေကြ၏၊ အရာရာတွင် အရှင်ဇနကာဘိဝံသ လုပ်သည်ဟုလည်း ထင်နေကြ၏၊ ပါဠိတက္ကသိုလ်ဥပဒေတွေ ဖျက်သိမ်းတာ သူ၊ ဝိနိစ္ဆယဥပဒေတွေ ဖျက်သိမ်းတာ သူ၊ အုပ်ချုပ်ရေးစီမံကိန်းတွေဆွဲတာ သူ၊ ရဟန်းသာမဏေများ မှတ်ပုံတင်ကတ်ပြား ကိုင်ရအောင် လုပ်တာ သူ စသည်ဖြင့် သူ့ အပေါ် ချည်း ပုံချ၊ သူ့ကိုချည်း လက်ညှိုးထိုးနေကြတော့၏။

အမှန်မှာ ထိုသို့ မဟုတ်ပါချေ၊ ယခု စာရေးနေသော သူတို့၏ ရှေ့တွင်ဖြစ်၍ အားလုံးအတိအကျသိနေရပါသည်၊ မော်ဘီအစည်းအဝေးကြီးတွင် ဆရာတော် အရှင်ဇနကာဘိဝံသ ဆောင်ရွက်သည်မှာ "အနာဂတ် သံဃာတော်များ၏ ပညာရေး" တစ်ခုတည်းသာလျှင် ဖြစ်ပါ၏၊ ယင်းပညာရေး တစ်ခုကိုသာလျှင် စူးစိုက်၍ ဆောင်ရွက်တော်မူပါသည်၊ အခြားသော မှတ်ပုံတင်ကတ်ပြားကိစ္စ၊ ဝိနိစ္ဆယကိစ္စ၊ နေထိုင်အုပ်ချုပ်ရေးကိစ္စ စသည်တို့ကို အခြားသော ဆရာတော်တို့ ခွဲဝေဆောင်ရွက်တော်မူကြခြင်းသာ ဖြစ်ပါသည်။

## တစ်နိုင်တစ်မဆောင်ရွက်

ဆရာတော် အရှင်ဇနကာဘိဝံသကား ဖွဲ့လျှော့တတ်သူ မဟုတ်ပါ၊ အလုပ်တစ်ခုကို လုပ်တော့မည်ဆိုလျှင် ရှေ့နောက်အတန်တန် အဖန်ဖန်ချိန်ဆလေ့ရှိပါသည်၊ ချိန်ဆပြီး၍ "အကျိုးရှိမည်"ဟု မြင်လျှင် ရဲရဲတင်းတင်းပင် လုပ်ကိုင်လေ့ရှိပါ၏၊ ထို့ကြောင့်ပင် သူသွားရာလမ်းတစ်လျှောက်၌ အရှိန်ပြင်းသော လှေသင်္ဘောကြီးများသွားသောအခါ နံဘေးသို့ လှိုင်းဂယက်များ ဖြာ၍ ပြန့်သကဲ့သို့ ဂယက်များ ထ၍ ထ၍ ဖြာပြီး ကျန်ရစ်တတ်ပါသည် မည်မျှလောက်ဂယက်ထ၍ ပွက်ကြစေကာမူ ဖွဲကား လျှော့တတ်သူ မဟုတ်ပေ။

ယခုလည်း သာသနာတော်ကြီးအတွက် အများနှင့် စုပေါင်း၍ ဆောင်ရွက်ချက်မအောင်မြင်သောအခါ "တစ်ဦးတည်း တစ်ပါးတည်း တစ်နိုင် တစ်မဆောင်ရွက်တော့မည်"ဟုသန္နိဋ္ဌာန်ချတော့၏။

ထိုသန္နိဋ္ဌာန်အတိုင်း မော်ဘီအစည်းအဝေးမှ အပြန်တွင် မိမိကျောင်းတိုက်သို့ ပြန်ရောက်သောအခါ မိမိကျောင်းတိုက်ကို ပိပိရိရိ တိတိကျကျဖြစ်အောင် ပိုမို၍ ဦးစိုက် ဆောင်ရွက်လာတော့သည်၊ ယခုလို ဖွဲမလျှော့ဘဲ ကြိုးစားဆောင်ရွက်နေနိုင်ခြင်းကား "မိမိတစ်ပါးတည်းအကျိုးအတွက် မဟုတ်၊ မြတ်စွာ ဘုရား၏ သာသနာတော်ကြီးအတွက် အောက်သို့ မသက်ဘဲ ဆက်လက်တည်တံ့အောင်" ဟူသော ရည်ရွယ်ချက်ကြောင့်သာ ဖြစ်၏။

ထို့ကြောင့် ဆရာတော်က မိမိ၏ရည်ရွယ်ချက်ကို ဤသို့ ကြုံးဝါး၍ အမိပ္ပာယ်ဖော်လိုက်၏။

"ငါတည်းတစ်ယောက်, ချမ်းသာရောက်ဖို့, စုလောက် ကြိုးကုတ်, အားမထုတ်ဘူး၊ ဗုဒ္ဓမြတ်စွာ, သာသနာ၏, ရှေးခါဘိုးဘ,

လက်ထက်ကလျှင်, ရသည့်တန်ဖိုး, ထပ်မညှိုးဖို့ အားကြိုးမာန်တက်, ငါဆောင်ရွက်သည်... ဆက်လက်တည်တံ့ပါစေသော်"

## ဆောင်ရွက်သမျှ အရာထင်

မလျှော့သောဇွဲ, ခိုင်မြဲသောစိတ်ဓာတ်, တည့်မတ်သောစေတနာ, ယုံကြည်သောသဒ္ဓါဖြင့် သာသနာတော်ကို ဂုဏ်ရှိအောင် မနေမနား ရွက်ဆောင်လာသောအခါ ဆရာတော်၏ လုပ်ငန်းတို့သည် အရာထင်ထင် ပေါ်လွင်လာတော့၏၊ ဆရာတော် အရှင်ဇနကာဘိဝံသ ခဏ ခဏ ပြောတတ်သည်မှာ "ဘုရားသာသနာတော်ကြီးက မူလကပင် အဆင့်အတန်း မြင့်ပြီးသားပဲ၊ သာသနာ့ဝန်ထမ်းပုဂ္ဂိုလ်တို့ရဲ့ မှုမမှန်သော အပြုအမူ အနေအထိုင် အပြောအဆိုတို့ကြောင့်သာ အထက်တန်းဆိုတဲ့ လူတန်းစားတွေရဲ့ အထင်သေးခြင်း ခံနေရတာ၊ သာသနာ့ဝန်ထမ်းတို့ကသာ သီလ သမာဓိ ပညာ သိက္ခာသုံးပါးပြည့်စုံအောင် နေပါလျှင် အဘယ်မှာ အထင်သေးခံရလိမ့်မည်လဲ၊ မော်ပြီး ကြည့်ခြင်းသာ ခံရမှာပေါ့"ဟူ၍ ဖြစ်၏။

ဤယုံကြည်ချက်အတိုင်း ဆောင်ရွက်လာသောအခါ မကြာသောနှစ်အတွင်းမှာပင် ဆရာတော်၏ ကျောင်းတိုက်, ဆရာတော်၏နေရာမှာ မြန်မာနိုင်ငံသာမကဘဲ ကမ္ဘာကပါ အာရုံစိုက်၍ လာရသည့် အဆင့်သို့ ရောက်လာလေတော့သည်၊ ယခုတိုင်အောင် ဆရာတော်၏ကျောင်းတိုက်သို့ ကမ္ဘာလှည့်ခရီးသည်များ ဝင်ထွက်မစဲ အမြဲလာရောက် လေ့လာနေကြရတော့သည်၊ မလျှော့သောဇွဲဖြင့် ဆောင်ရွက်ခဲ့သမျှ အရာထင်ခြင်းပေတည်း။

(မှော်ဘီအစည်းအဝေးကြီးတွင် ဆရာတော် အရှင်ဇနကာဘိဝံသတင်ပြသော ပညာရေးမူစနစ်ကို သတ္တမအကြိမ်ရိုက် အနာဂတ်သာသနာကျမ်းစာတွင် ကြည့်ရှုနိုင်ပါသည်။)

## မဟာဂန္ဓာရုံကျောင်းတိုက်ပညာရေးမူစနစ်

### မူစနစ်ကို ပြုပြင်ရမည်

ဆရာတော် အရှင် ဇနကာဘိဝံသသည် တစ်သာသနာလုံးရှိ သံဃာတော်များ၏ ပညာရေးမူစနစ်ကို ပြုပြင်ဖို့ရာ အမြဲတမ်းစိတ်ဝင်စားနေသော ဆရာတော်တစ်ပါး ဖြစ်၏၊ ရှေးက သင်ကြားခဲ့ရသော ပညာရေးမူစနစ်သည် ကျန်းမာရေးကောင်းကြသော သူတို့ခေတ်နှင့် သူတို့အခါတွင် မှန်ကန်သည်ဟု ပြောနိုင်သော်လည်း ယခုအခါတွင် မှန်ကန်သည်ဟု မဆိုနိုင်တော့ချေ၊ ကျန်းမာရေးများ နည်းပါးလာကြ၏၊ သက်တမ်းများလည်း တိုလာကြ၏၊ သိစရာတွေကား များလာကြသည်၊ သက်တမ်းတိုသောခေတ်တွင် လှည်းအိုကြီးများဖြင့် ခရီးသွားသလို တအိအိသွားနေ၍ မဖြစ်, အများနည်းတူ လေယာဉ်ပျံ ဒုံးပျံ ဂြိုဟ်တုတို့ဖြင့် အမြန်သွားနိုင်မှ ဖြစ်မည်၊ ထို့ကြောင့် ဖင့်နွဲ့လေးတွဲ့နေသော ရှေးမူစနစ်ကို ပြင်ရမည်။

မူစနစ်ကို ပြုပြင်နိုင်မှ သင်ရိုးပိဋကတ်တွေကို မြန်မြန် ပေါက်အောင် သင်ယူနိုင်မည်၊ မြန်မြန်ပေါက်မှ အပြင်ဗဟုသုတတွေကိုလည်း လေ့လာဖို့ အချိန်ရမည်။

ယခုခေတ်ကား ... သိပ္ပံ ထွန်းကားနေသော ခေတ်ကြီး, အရာရာ တိုးတက်နေသော ခေတ်ကြီး ဖြစ်၏၊ တအိအိနှင့် သင်နေရသောကြောင့် သင်ရိုးပိဋကတ်တွေ မပေါက်နိုင်သဖြင့် လက်တွေ့ကျင့်ကြဖို့ အချိန် နည်းပါးသွားမည်စိုးရခြင်း, အပြင်ဗဟုသုတ သိစရာတွေကို လေ့လာဖို့ အချိန် မရလိုက်ဘဲနေမှာ စိုးရခြင်းတို့ကြောင့် ဇောက် ပြုပြင်မှ ဖြစ်မည်။

ပြုပြင်မှုတစ်နှစ် နောက်ကျလျှင် ခေတ်မီဖို့ ဆယ်နှစ် နောက်ကျသွားနိုင်သည်။

## တစ်နိုင်ငံလုံးအတွက် စနစ်ပြောင်းပါ

တခြား နိုင်ငံတွေမှာ အခြေအနေအရ ကိုယ့်ဆိုင်ရာပညာရေးစနစ်တွေကို ပြုပြင်နေကြပြီ၊ မိမိတို့ မြန်မာနိုင်ငံ ရဟန်းတော်များ လောကဥတ္တရာ အေးအေးဆေးဆေးပင် နေတော်မူကြသည်၊ သူများနိုင်ငံတွေ တိုးတက်သည်ကိုလည်း စိတ်မဝင်စား, မိမိတို့အတွက် တိုးတက်ဖို့လည်း မကြိုးစား သွေးအေးတော်မူအားနိုင်ကြသည်၊ ဆရာတော် အရှင်ဇနကာဘိဝံသကား ဤသည်တို့ကို အားမရနိုင် ဖြစ်တော်မူ၏၊ ထို့ကြောင့် မိမိမြင်သမျှကို တင်ပြလှူ့ဆော်၍ ပြုပြင်ရေးကို အရေးဆိုတော်မူနေခြင်း ဖြစ်သည်။

သက္ကရာဇ် ၁၂၉၄ ခုနှစ်က (အသက် ၃၀ ကျော်စာချဘုန်းကြီး ခပ်ရွယ်ရွယ်ဘဝက) ရွှေကျင်ဂိုဏ်းလုံး ပရိယတ္တိပညာသင်ကြားရေး တစ်ပြေးညီဖြစ်ဖို့နှင့် မူစနစ်ကိုလည်း လွယ်လွယ်ကူကူနှင့် တတ်မြောက်အောင် ပြုပြင်ရန် ဆရာတော် အရှင်ဇနကာဘိဝံသ စီမံလှူ့ဆော်ဖူးသည်၊ ထို့ကြောင့် လေးကြိမ်မြောက် ဂိုဏ်းလုံးဆိုင်ရာ အစည်းအဝေးကြီးက "ပရိယတ္တိဝန်ဆောင်အဖွဲ့"ကို ဖွဲ့စည်းစေ၍ ပညာရေးမူစနစ်ကိုလည်း ရေးဆွဲစေဖူးသည်၊ ရေးဆွဲ၍လည်း တင်ပြခဲ့ဖူးသည်၊ သို့သော် နောက်ပိုင်းတွင် အရာမထင်ဘဲ တဖြည်းဖြည်း မှေး၍ ပျောက်ခဲ့ရသည်။

ထို့နောက်တစ်ဖန် ၁၃၂၆ မှော်ဘီအစည်းအဝေးကြီးတုန်းကလည်း တစ်ကြိမ်, တစ်နိုင်ငံလုံး ရဟန်းတော်များ၏ ပညာရေးမူစနစ်ကို လွယ်လွယ်ကူကူနှင့် သင်ကြားတတ်မြောက်နိုင်အောင် ပြုပြင်ရန် လှူ့ဆော်ပြန်လေသည်။

ဖြစ်သင့်သော မူစနစ်ကိုလည်း ရေးဆွဲ တင်ပြခဲ့၏၊ ဤအကြိမ်တွင်လည်း ကန့်ကွက် ဟန့်တားမှုတို့ကြောင့် အောင်မြင်မှု မရှိ၊ ပျက်ပြယ်ခဲ့ရပြန်လေသည်။

## တစ်ကိုယ်တော် ကြိုးစားခဲ့

ဆရာတော်ကား အများနှင့် စုပေါင်း၍ အလုပ်လုပ်ရာတွင် ကန့်ကွက်မှုများ ဖျက်ဆီးမှုများ ပေါ်ပေါက်၍ အလုပ်မဖြစ်သောအခါ တစ်ပါးတည်း ဆောင်ရွက်တော်မူလေ၏၊ ယခုလည်း တစ်နိုင်ငံလုံးအတွက်, တစ်ဂိုဏ်းလုံးအတွက် ဆောင်ရွက်၍ အလုပ်မဖြစ်သောအခါ မိမိတိုက်တာတစ်ခုတည်း အတွက်ပင်ကွက်၍ ဖိဖိစီးစီး ဆောင်ရွက်တော်မူ၏၊ မိမိတိုက်တာမှထွက်ပေါ်လာသော တပည့်အပေါင်းသည် နောင် အနာဂတ်ခေတ်တွင် ထိုက်သင့်သလို အစွမ်းရှိသမျှ ပြုပြင်ရစ်ကြလိမ့်မည်ဟု သဘောထားတော်မူဟန် ရှိ၏။

လက်တွေ့တွင်လည်း သာသနာ့ဝန်ထမ်း ရဟန်းသာမဏေ သီလရှင်ဟူသမျှ လွယ်လွယ်နှင့် ပညာသင်ကြားတတ်မြောက်နိုင်ရန် အောက်ပိုင်းအခြေခံမှ စ၍ အခြေပြုသဒ္ဒါ, အခြေပြုသင်္ဂြိုဟ်, ပါဠိသိက္ခာ, သဒ္ဒါကျဉ်း စသည်တို့ကို ပြုပြင် စီရင်တော်မူ၏၊ ထို့နောက်မှ တဖြည်းဖြည်းအဆင့်မြင့်သော ကစ္စည်းဘာသာဋီကာ, ရူပသိဒ္ဓိဘာသာဋီကာ, ပါတိမောက်ဘာသာဋီကာ, သင်္ဂြိုဟ်ဘာသာဋီကာ စသည်တို့ကို စီရင်တော်မူခဲ့သည်။

ထို့နောက်တွင် ထို့ထက်အဆင့်မြင့်သော သင်ရိုးပိဋကတ်နိကာယ်ကြီးများကို လွယ်လွယ်နှင့် သင်ယူတတ်မြောက်နိုင်ရန် ယင်းတို့၏ အဖွင့်အဋ္ဌကထာဘာသာဋီကာကြီးများကို ရေးသား၍ သွားတော်မူ၏၊ မိမိကိုယ်တိုင် အုပ်ချုပ်နေရသော ကျောင်းတိုက်တွင်လည်း ပညာသင်ကြားရေး မူစနစ်ကို မိမိစိတ်ကြိုက် စီစဉ်တော်မူ၏။

အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်၌ ယခုလက်ရှိကျင့်သုံးနေသော ပညာရေးမူစနစ်မှာ ဆရာတော် အရှင်ဇနကာဘိဝံသ စီစဉ်ထားသော စနစ်သစ်ပညာရေးမူပင် ဖြစ်ပါသည်၊ ယင်းတို့ကား...

**အတန်းအားဖြင့်**

၁။ မူလတန်း သင်ချိန် ၆ လ၊

၂။ (က) ပထမတန်း (ရှေ့ပိုင်း) ၆ လ၊

(ခ) ပထမတန်း (နောက်ပိုင်း) ၆ လ၊

၃။ ပထမဆင့်၊

၄။ ဒုတိယဆင့်၊

၅။ တတိယဆင့် ဟူ၍ ငါးတန်းခွဲခြားထား၏။

**သင်ချိန်ကာလ, ပြဋ္ဌာန်းဘာသာနှင့်အကျိုးကျေးဇူး**

၁။ မူလတန်း

(က) ရတနာ့ဂုဏ်ရည်၊
(ခ) ရုပ်ပုံရှင်ကျင့်ဝတ်၊
(ဂ) ပါဠိသိက္ခာ၊
(ဃ) သဒ္ဒါကျဉ်းတို့ ဖြစ်၏။

(က) ရတနာ့ဂုဏ်ရည်ကို သင်ယူရခြင်းဖြင့် ဘုရား တရား သံဃာ ဂုဏ်တော်များကို ပါဠိအနက် သိရခြင်း, ငါးပါးသီလ ရှစ်ပါးသီလ ကိုးပါး သီလ ဆယ်ပါးသီလအပြင် ကောမာရပြဟ္မ စရိယသီလ အာဇီဝဋ္ဌမကသီလတို့ကိုလည်း နားလည်ရခြင်းအကျိုးရှိ၏၊ ထို့ပြင် သုစရိုက် ဒုစရိုက်နှင့် ပုညကိရိယဝတ္ထုဆယ်ပါး, ကံ ကံ၏ အကျိုးတရားများ, ဩကာသကန်တော့ ခန်း, ဆုတောင်းပုံအမျိုးမျိုးကိုလည်း သိရ၏၊ ထိုမှတစ်ပါး စေတီတော်အမျိုးမျိုး, ရောင်ခြည် တော်ဖွင့်, လက္ခဏာတော်ကြီး/ငယ်တို့ကိုပါ သိလာရသဖြင့် ဗဟုသုတအမြင် ကျယ်ဝန်း လာသူဖြစ်နိုင်ပါ၏၊ ဤမျှဖြင့် အခြေခံအတော် ကောင်းသော ဗုဒ္ဓဘာသာဝင်တစ်ယောက် ဖြစ်လာစေနိုင်ပါသည်။

(ခ) ရုပ်ပုံရှင်ကျင့်ဝတ်ကို သင်စေခြင်းအားဖြင့် သာမဏေပြုရာ၌ ဆံချ, သင်္ကန်းကပ်, သင်္ကန်း တောင်း, သရဏဂုံယူ၍ ရှင်ပြုရပုံတို့ကို နား လည်ရခြင်း၊ ထို့ပြင် သာမဏေတို့ ကျင့်သုံးရ သော လိင်ဆယ်ပါး, ဒဏ်ဆယ်ပါး, ပစ္စဝေက္ခ ဏာ, ကောဋ္ဌာသကမ္မဋ္ဌာန်း, ခန္ဓကဝတ် ၁၄ ပါး, ဓုတင် ၁၃ ပါးတို့ကို အပို ဗဟုသုတအဖြစ် ရနိုင်ခြင်းအကျိုး ရှိပါသည်၊ ဤမျှဖြင့်ပင် သာမဏေတစ်ပါး ကျင့်သုံးဖို့အတွက် လုံ လောက်သော အသိဉာဏ်များ ရရှိနိုင်ပါသည်။

(ဂ) ပါဠိသိက္ခာကို သင်စေခြင်းဖြင့် ကတ္တားဟော, ကံဟော, ယောဂအခွဲ, တုလျာဓိကရဏ ဝိသေသန, ဘိန္နာဓိကရဏဝိသေသန, ကြိယာ ဝိသေသန, အစ္စန္တသံယောဂ, လက္ခဏ-လက္ခ, တုလျတ်-လိင်္ဂတ်,နာမ်ဝိဘတ် အနက်အမျိုးမျိုး တို့ကို သိလာရ၏၊ ထို့ပြင် အာချာတ်ဘဝိသတ္တိ, အဇ္ဇတ္တနီ,ပဥ္စမီ,သတ္တမီဝိဘတ်အနက်အမျိုးမျိုး ကိုလည်းကောင်း, ကိတ်ကြိယာ အမျိုးမျိုးကို လည်းကောင်း သိလာရ၏၊ ထိုမှတစ်ပါး စ ပိ ဝါ စေဝ မာ နိပါတ်များ သုံးနှုန်းပုံကိုပါ သိလာ ရသဖြင့် (စကားတတ်ခါစသူငယ်ကဲ့သို့) ပါဠိ နယ်ပယ်တွင် တီတီတာတာ အနက်ပေးတတ်, မြန်မာပြန်တတ်, အတော်အတန် ပါဠိစီကုံး တတ် ဖြစ်လာပါသည်။

(ဃ) သဒ္ဒါကျဉ်းကို သင်စေခြင်းအားဖြင့် နာမ်ဂိုဏ်း အာချာတ်ဂိုဏ်းတို့ အကြောင်းကို သိရခြင်း, သန္ဓိပုဒ်စပ်/ပုဒ်ဖြတ်တို့ကို ရဲရဲရင့်ရင့် ဖြတ်ဝံ့ စပ်ဝံ့ခြင်း,သမာသ် တဒ္ဓိတ် ကိတ်တို့အကြောင်း ကို နားလည်ရခြင်းအကျိုး ရှိစေပါသည်၊ ဤ သဒ္ဒါကျဉ်းကို ပိုင်လျှင် ကစ္စည်း ရူပသိဒ္ဓိတို့ကို တက်ပြီးသူလောက်နီးနီး အသိဉာဏ်ကျယ်ဝန်း လာပါသည်၊ ဤအစီအစဉ်အတိုင်း ၆ လ သင် ပြီးသောအခါ စာသင်သူငယ်မှာ ဘာသာရေး အခြေခံလည်း ကောင်းကောင်းရလေပြီ၊ ပါဠိ ဘာသာ တတ်ကျွမ်းဖို့လည်း လမ်းစ အခြေခံ ကောင်းကောင်း ရနေပေပြီ။

**သင်ချိန်ကာလ, ပြဋ္ဌာန်းဘာသာနှင့်အကျိုးကျေးဇူး**

၂။ ပထမတန်း (ရှေ့ပိုင်း) ၆ လ

(က) ဓမ္မပဒအဋ္ဌကထာ (ယမကဝဂ်)၊
(ခ) အခြေပြုသဒ္ဒါ (သန္ဓိ နာမ် အာချာတ်)
(ဂ) ကထာသလ္လာပသိက္ခာ။

(က)ဓမ္မပဒအဋ္ဌကထာစာအုပ်ကြီးကိုပင် ယခုအခါ စတင်ကိုင်နေလေပြီ၊ ပါဠိသိက္ခာနှင့်သဒ္ဒါကျဉ်း တို့ကို ပိုင်ပိုင်နိုင်နိုင် သင်ယူပြီးသောအခါ ... စာသင်သားငယ်သည် ဆရာ၏အကူအညီဖြင့် ဓမ္မပဒအဋ္ဌကထာမှ စာကြောင်းများကိုပင် အနည်းငယ် အနည်းငယ် ခွဲ၍ စိတ်၍ ဖြည်း ဖြည်း ဖြည်းဖြည်း အနက်ပေးတတ်နေလေပြီ၊ စာသင်ချိန် ၆ လ ကျော်ကျော်မျှဖြင့် ဤ အခြေ အနေသို့ ရောက်နေလေပြီ၊ အံ့ဩစရာပင် ဖြစ်တော့၏။

(ခ)အခြေပြုသဒ္ဒါသင်စေရခြင်းမှာ ပါဠိသိက္ခာနှင့် သဒ္ဒါကျဉ်းကို အားတင်းဖြည့်ပေးသောသဘော ပင် ဖြစ်၏၊ ပို၍ ခိုင်မာလာစေရန် ဖြစ်သည်၊ အမှန်မှာ **ပါဠိသိက္ခာနှင့်သဒ္ဒါကျဉ်း**စာအုပ်ငယ်ကို စီစဉ်ပေးခြင်းမှာ နိကာယ်ပင်လယ်ကြီးများကို

ကူးဖို့ လှေကလေးဖန်ဆင်းပေးခြင်း ဖြစ်၏၊ ယင်းဖြင့် ကူးလည်းကူးနိုင်စွမ်းရှိ၏၊ သို့သော် မိုးဒဏ် လေဒဏ် ခံနိုင်ရန် တည်ငြိမ်ဖို့အတွက် ထို့ထက်ကြီးသော လှေကြီးပမာ အခြေပြုသဒ္ဒါကို ကူညီပေးစေရခြင်းဖြစ်ပါသည်၊ ဤအတန်း၌ သန္ဓိ နာမ် အာချာတ် သုံးပိုင်းမျှသာ သင်ယူရ၏။ (ကစ္စည်းဝုတ္တိနှင့်အခြားသဒ္ဒါကျမ်းကြီးများကို နောင်အခါ အလိုလို ကြည့်တတ်လာပါလိမ့်မည်။)

(ဂ) ကထာသလ္လာပသိက္ခာကျမ်းကား ပါဠိစကားပြောကျမ်း ဖြစ်၏၊ မဟာဂန္ဓာရုံကျောင်းတိုက်၌ ပါဠိကို သင်ယူရာတွင် များစွာသောနေရာတို့၌ကဲ့သို့ စာအုပ်ထဲမှ ပါဠိကို အနက်ဖော်တတ်ရုံမျှသာ သင်ရသည် မဟုတ်သေး၊ ပါဠိစာကြောင်းများကို ကံ ကတ္တား မှန်ကန်အောင် အရေးလေ့ကျင့်ရခြင်း၊ ကိုယ်ပိုင်ဝါကျများ အသစ်တည်ဆောက်တတ်အောင် လေ့ကျင့်ကြရခြင်း၊ နှုတ်မှလည်း နည်းနည်း နည်းနည်း ပြောခြင်းဖြင့် အပြောလေ့ကျင့်ရခြင်းတို့ဖြင့် သင်ယူရသော နည်းစနစ်ဖြစ်သည်။

ဤနည်းအားဖြင့် ပါဠိနှင့်ရင်းနှီးသွားအောင် စီမံထားခြင်း ဖြစ်ပေသည်၊ ဤနည်းအတိုင်း လိုက်နာလာခဲ့သောမဟာဂန္ဓာရုံစာသင်သားတို့သည် မကြာသောနှစ်အတွင်းမှာ ပါဠိကို နိုင်နင်းလာကြ၏၊ စာမေးပွဲများတွင် ပါဠိလို ဖြေဆိုနိုင်ကြတော့၏၊ ယခုအခါ ဤစာသင်သားသည် တစ်နှစ်တာအချိန် ပြီးဆုံးလေပြီ။

**သင်ရိုးကာလ, ပြဋ္ဌာန်းဘာသာနှင့်အကျိုးကျေးဇူး**

**၂။ ပထမတန်း (နောက်ပိုင်း) ၆ လ**

(က) ဓမ္မပဒအဋ္ဌကထာ (အပ္ပမာဒဝဂ်)၊
(ခ) အခြေပြုသဒ္ဒါ (ကိတ် ဥဏာဒ် ကာရက)
(ဂ) အခြေပြုသင်္ဂြိုဟ် (အောက်သုံးပိုင်း)။

(က) ဓမ္မပဒအဋ္ဌကထာကို ယခင် ၆ လပိုင်းကပင် သင်ယူလာခဲ့ရသဖြင့် ယခုအခါ အသွားအလာ အတော် သဘောပေါက်နေလေပြီ၊ မကြားဖူးသော ဝတ္ထုဇာတ်လမ်းများကို သိလာရသဖြင့် စိတ်ပျော်ရွှင်မှုလည်း ရနေသည်။

(ခ) အခြေပြုသဒ္ဒါကို တစ်ဖက်မှ သင်ယူရင်း ထိုသင်ယူပြီး စည်းကမ်းတို့အရ ဓမ္မပအဋ္ဌကထာထဲတွင် ပါသောစာကြောင်းတို့ကို အချို့ပုဒ်ဖြတ်ခိုင်း၍ အချို့ပုဒ်စပ်ခိုင်း၏၊ ဤနည်းဖြင့် သဒ္ဒါကို လက်တွေ့ အသုံးပြုပြီး သင်ကြားပေးနည်းမျိုး ဖြစ်သည်။

(ဂ) အခြေပြုသင်္ဂြိုဟ်ကို သင်စေပြီးနောက် ပထမတွင် ရိုးရိုးသရုပ်ခွဲပြ၏၊ ထို့နောက် စိတ်ယှဉ်စေတသိက်ယှဉ်တို့ကို ဓမ္မပဒအဋ္ဌကထာလာ ဇာတ်ကြောင်းများ၌ သွင်း၍ပြ၏၊ မည်သည့်နေရာ မည်သည့် ဇာတ်ကြောင်းတွင် မည်သို့သော စိတ်များ ဖြစ်နိုင်သည်၊ မည်သို့သော စေတသိက်များယှဉ်နိုင်သည်ဟု ချပြလေ့ရှိ၏။

ဥပမာ-ဝတ္ထုကြောင်းပါ ဇာတ်ကောင်တို့၏ စိတ်ဆိုးကြရသောအခန်း၌ မည်သည့် အကုသိုလ်စိတ်များ စေတသိက်များ ဖြစ်ပုံကို ဖော်ပြ၍ပေး၏၊ အလားတူ ကြည်ဖြူရွှင်လန်းသော အခန်းတို့၌ မည်သည့်ကုသိုလ်စိတ်များ စေတသိက်များ ဖြစ်ပုံကို အတိအကျ ဖော်ပြပေးသော အလေ့မျိုးဖြစ်၏၊ အဘိဓမ္မာကို သရုပ်ခွဲရုံမျှမက ဘဝတွင် လက်တွေ့ အသုံးချပေးနည်းမျိုးဖြစ်သည်၊ ယခုအခါ ဤအတန်းကုန်လျှင် စာသင်ချိန် တစ်နှစ်ခွဲ ရှိလေပြီ။

**သင်ရိုးကာလ, ပြဋ္ဌာန်းဘာသာနှင့်အကျိုးကျေးဇူး**

**၃။ ပထမဆင့် (၆ လ သင်ချိန်)**

(က) ဝိနည်းမဟာဝါပါဠိတော် (အကုန်)၊
(ခ) အင်္ဂုတ္တိုရ်ပါဠိတော်(ဧကကမှ တိကအကုန်)၊
(ဂ) ဓမ္မပဒအဋ္ဌကထာ (ယမက, အပ္ပမာဒ)၊
(ဃ) အခြေပြုသဒ္ဒါ (ကျန် သမာသ် တဒ္ဓိတ်)၊
(င) အခြေပြုသင်္ဂြိုဟ် (အောက် ၆ ပိုင်း)။

(က) ယခုအခါ ဝိနည်းမဟာဝါပါဠိတော်ကြီးကိုပင် ကိုင်၍ တစ်ဆင့်တက်လာလေပြီ၊ ဤပါဠိတော်ကြီးများကို တစ်နေ့လျှင် အနည်းငယ်မျှသာ အနက်ချပေး၍ တဖြည်းဖြည်း တရွေ့ရွေ့သာ သင်ယူကြရသည်၊ (သိနေ့ ပဗ္ဗတမာရုယှံ) ဟူသည့်အတိုင်း မြင့်မောက်သောတောင်ကြီးများပေါ် သို့ တဖြည်းဖြည်း တရွေ့ရွေ့တက်ရသည့်ဥပမာအရ အနည်းငယ်မှစ၍ တဖြည်းဖြည်း တရွေ့ရွေ့ အရှိန်ယူပြီးတက်ကြရသည်။

( ခ ) အင်္ဂုတ္တိုရ်ပါဠိတော်ကြီးကိုလည်း ယခုမှ တွေ့ရသဖြင့် ဖြည်းဖြည်းချင်းပင် သင်ယူရသည်၊ ပါဠိတော်ကြီးများကို မတွေ့စဖူး တွေ့နေရ၍ စာသင်သားငယ်ဘဝမှာ အပျော်ကြီးပျော်နေရတော့၏၊ အရှိန်အဝါတွေလည်း တက်လာနေသည်။

( ဂ ) ဓမ္မပဒအဋ္ဌကထာနှင့်ကား အတော် ရင်းနှီးကျွမ်းဝင် နေခဲ့ပါလေပြီ၊ ဤပါဠိတော်ကြီး အဋ္ဌကထာကြီးများကို တက်နေစဉ် တစ်ဖက်မှ သဒ္ဒါနှင့်သင်္ဂြိုဟ်သဘောတို့ကို ဤပါဠိတော်အဋ္ဌကထာကြီးများ၌ သွင်းချ၍ အသုံးပြုပြုသည်၊ ဤအတန်းကုန်လျှင် စာသင်နှစ် ၂ နှစ်ရှိလေပြီ၊ စာသင်သူငယ်သည် ယခုအခါ မန္တလေးမြို့မှ ကျင်းပပေးသော သာမဏေသကျသီဟစာမေးပွဲ (ပထမဆင့်)ကို စတင်ဝင်နိုင်လေပြီ။

**သင်ချိန်ကာလ, ပြဋ္ဌာန်းဘာသာနှင့်အကျိုးကျေးဇူး**

**၄။ စုတိယဆင့် (၆ လ သင်ချိန်)**

(က) စူဠဝါပါဠိတော်နှင့်ပရိဝါပါဠိတော်
( ခ ) အင်္ဂုတ္တိုရ်ပါဠိတော် (ဆက္ကအကုန်)၊
( ဂ ) ဓမ္မပဒအဋ္ဌကထာ (ဒဏ္ဍဝဂ်အကုန်)၊
(ဃ) အခြေပြုသင်္ဂြိုဟ် (အကုန်)။

(က) ယခုအခါ တစ်ဆင့်တက်၍ ဝိနည်းပါဠိတော်ကြီးများဖြစ်သော စူဠဝါနှင့် ပရိဝါတို့ကိုပင် သင်ယူနေရပြန်ပြီ၊ ယခင် အောက်ဆင့်ကပင် ဝိနည်းဗဟုသုတများ ရရှိခဲ့သည့်ပြင် ယခုအခါ အဆင့်မြင့်သော ဝိနည်းဗဟုသုတများကိုလည်း ရရှိနေပြန်ပြီ။

( ခ ) အင်္ဂုတ္တိုရ်ပါဠိတော်ကား ယခင်ကပင် ရင်းနှီးခဲ့ပြီး ဖြစ်၏၊ ယခု နောက်ထပ်၍ အကြောင်းအရာများစွာတို့ကို သိရှိနားလည်ရပြန်ချေပြီ၊ ကြည်နူးဖွယ်ကောင်းလှ၏၊ ပိဋကတ်၌ တိုတိုထွာထွာ သိစရာတွေ များလှသည်။

( ဂ ) ဓမ္မပဒအဋ္ဌကထာလည်း ရင်းနှီးပြီးသားပင် ဖြစ်၏၊ ဤပါဠိတော်နှင့် အဋ္ဌကထာကြီးများတွင် သဒ္ဒါ သင်္ဂြိုဟ်တို့ကို သက်တွေ့ချ၍ ချ၍ ဆရာသမားများက အသုံးပြုပြုကြသည်၊ သဒ္ဒါ သင်္ဂြိုဟ်ဆိုတာ စာအုပ်ထဲတွင် သရုပ်ခွဲဖို့မျှသာ သင်ရသည်မဟုတ်၊ လူ့ဘဝ လူ့လောကတွင် ဤသို့ အသုံးချရသည်ဟု ညွှန်ပြနေသလို ဖြစ်တော့၏၊ မမြင်နိုင်သော အဘိဓမ္မာသဘောတို့ကို မကောင်းရာ တစ်သန့်, ကောင်းရာ တစ်သန့် ခွဲခြား၍ မကောင်းရာကို ဖယ်ရှား, ကောင်းရာကို ဆောင်ထားနိုင်ဖို့ရာ ဖော်ထုတ်ပေးခြင်းမျိုး ဖြစ်၏။

ဤအပိုင်းမှာ သဒ္ဒါဘက်တွင် သမာသ်တဒ္ဓိတ် ကိတ်ဝိဂြိုဟ်များနှင့် သင်္ဂြိုဟ်ဘက်တွင် ဝီထိချနည်းများကိုပါ လေ့လာနေရပြီ၊ ယခုအချိန်ထိ စာသင်နှစ် ၂ နှစ်ခွဲရှိပြီ၊ သာမဏေသကျသီဟ ဒုတိယအဆင့်ကိုလည်းကောင်း, အစိုးရပထမငယ်တန်းကိုလည်းကောင်း ဝင်နေကြပြီ။။

**သင်ချိန်ကာလ, ပြဋ္ဌာန်းဘာသာနှင့်အကျိုးကျေးဇူး**

**၅။ တတိယဆင့် (၆ လ သင်ချိန်)**

(က) ပါရာဇိကဏ်ပါဠိတော်နှင့်ပါစိတ်ပါဠိတော်၊
( ခ ) အင်္ဂုတ္တိုရ်ပါဠိတော် (အကုန်)၊
( ဂ ) ဓမ္မပဒအဋ္ဌကထာ (အကုန်)။

(က) ပါရာဇိကဏ်ပါဠိတော်နှင့် ပါစိတ်ပါဠိတော်တို့မှာ ဝိနည်းသဘောအရ အခြေခံပိုင်းနှင့် အလယ်ပိုင်းတွင် ရှိခဲ့ကြသော်လည်း ယခုအစီအစဉ်အရ အထက်ဆုံး အပိုင်းတွင်ကျမှ ပြဋ္ဌာန်းခွင့်နေရာ ရပေ၏၊ ဤသို့ နောက်ချန်ထားခဲ့ခြင်းမှာ စာသင်သားငယ်တို့အဖို့ ပို၍ စိတ်ဝင်စားဖွယ် ဝတ္ထုကြောင်းကလေးများပေါသော မဟာဝါ စူဠဝါ ပရိဝါတို့ကို ရှေ့တန်းတင်ခဲ့ရသောကြောင့် ဖြစ်ပေသည်။

( ခ ) အင်္ဂုတ္တိုရ်ပါဠိတော်ကိုလည်း အကုန်သင်လိုက်ရသဖြင့် သုတ္တန်ဆိုင်ရာအကြောင်းအရာတွေတော်တော်များများ စုမိသေး၏၊ သိစရာတွေပြည့်ညပ်ပေါမျာလှသော ပါဠိတော်ကြီးပါပေ။

( ဂ ) ဓမ္မပဒအဋ္ဌကထာကို ပြဋ္ဌာန်းထားခြင်းကား စိတ်ဝင်စားဖွယ်အကြောင်းအရာဝတ္ထုဇာတ်လမ်းများကို နားလည်စေရန်လည်းကောင်း, ထို့ပြင် အဋ္ဌကထာ စာသွားကိုလည်း ကျွမ်းကျင်လာ

စေရန်လည်းကောင်း ရည်ရွယ်ခြင်း ဖြစ်သည်၊ ယခုအခါ စာသင်နှစ်သုံးနှစ်ရှိလေပြီ၊ သာမဏေ သက်ျသီဟ တတိယအဆင့်ကို ဝင်နိုင်ပြီ၊ တစ်ဖက်မှလည်း အစိုးရပထမလတ်တန်းကို လွယ်လွယ်ပင် ဝင်ရောက်ဖြေဆိုနိုင်ပြီ။

**မှတ်ချက်။** ။ဤအချိန်တွင် ဤစာသင်သားသည် ဝိနည်း ငါးကျမ်းလုံး ကုန်လေပြီ၊ သုတ္တန်ဆိုင်ရာ အင်္ဂုတ္တိုရ် အကုန်လုံး သိရလေ ပြီ၊ ဓမ္မပဒအဋ္ဌကထာ အကုန်လုံး ပေါက်မြောက်လေပြီ။

## သုံးနှစ်မျှဖြင့် အံ့ဩဖွယ်တွေ့ရ

ဤသို့လျှင် အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက် ပညာသင်ကြားရေးမူစနစ်အရ ဘောင်အတွင်းမှ လာခဲ့သော စာသင်သားတစ်ဦးသည် သုံးနှစ်ခန့်မျှဖြင့် ဝိနည်းငါးကျမ်းလုံး ပေါက်မြောက်ခြင်း, သုတ္တန်ပါဠိတော် အင်္ဂုတ္တိုရ် ၁၁ ကျမ်းလုံး ပေါက်မြောက်ခြင်း, ဓမ္မပဒအဋ္ဌကထာကြီး နှစ်အုပ်လုံးကုန်ခြင်း, သဒ္ဒါသင်္ဂြိုဟ်များကုန်ခြင်းအပြင် ဆိုင်ရာဆိုင်ရာ အဋ္ဌကထာများ ဋီကာများကို ကြည့်တတ်ရှုတတ် ဖြစ်၍ နေလေပြီ။

ဤမူစနစ်အရ သုံးနှစ်ခန့်မျှဖြင့် ဤမျှ ခရီးရောက်နေသည်မှာ မအံ့ဩဘဲ မနေနိုင်အောင် ဖြစ်ရတော့၏၊ ၁၅ နှစ်သား အရွယ်မှစတင်၍ ပညာသင်ယူခဲ့ရသူသည် ၁၈ နှစ်သားအရွယ် (သို့မဟုတ်) စာမေးပွဲကျခြင်း, ကျန်းမာရေးချို့တဲ့ခြင်း စသောအကြောင်းများရှိခဲ့ပါက ၁၉ နှစ်အရွယ် အနှစ် ၂၀ အရွယ်အတွင်းမှာပင် ဤမျှ ခရီးပေါက်အောင် ပိဋကတ်ပင်လယ်ကြီးများကို ကူးမြောက်ပြီးဖြစ်နေသည်မှာ အဘယ်မှာလျှင် အံ့ဩစရာမဟုတ်ဘဲ ရှိတော့မည်နည်း၊ အံ့ဩရမည်သာ။

ဤစာသင်သားသည် အခြားတစ်ဖက်မှ ပဋ္ဌာန်းအရကောက်တို့ကို လေ့လာရွတ်ဆို၍လည်းကောင်း, ဆန်း အလင်္ကာ အဘိဓာန်တို့ကို ကျက်မှတ်၍လည်းကောင်း ပထမကြီးတန်းကို ဖြောင့်တန်းစွာ ဝင်နိုင်နေလေပြီ။

## သင်ရင်းကျင့်, ကျင့်ရင်းသင်

ဤရေးဆွဲ မူချထားသော စနစ်ကို လေ့လာသုံးသပ်ပါလျှင် အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက် ပညာရေးမူစနစ်သည် ငယ် လတ် ကြီး စာချတန်း စာမေးပွဲများကို ဦးတည်ပြီး ရေးဆွဲထားသည်မဟုတ်၊ ပိဋကတ်အခြေခံ ရင့်သန်ကျွမ်းကျင်ရေးကိုသာ ဦးစားပေး ရေးရှုထားသည်ကို တွေ့ရမည်၊ သို့သော်လည်း အခြေခံက ရင့်သန်ခိုင်မာလာခဲ့သည့်အတွက် ငယ် လတ် ကြီး စာချတန်းအောင်မြင်ရေးမှာလည်း ဖင့်နွှေးမှု မရှိခဲ့ချေ၊ အများထက် နောက်မကျဘဲ ကျွဲကူး ရေပါ တစ်ပါးတည်း အောင်မြင်၍ လာတော့သည်။

စင်စစ်မှာမူ နောက်ကျသည် မကျသည်ကို ပမာဏ မထား၊ ဆရာတော်ဘုရား ရေးဆွဲစဉ်က အဓိကမှာ "စာသင်ရင်း ကျင့်, ကျင့်ရင်း စာသင်" ဟူသော ရည်ရွယ်ချက်ဖြင့် အကျင့်ပဋိပတ်နှင့် သင်ကြားမှု ပရိယတ်တို့ ဟပ်လျက် ကပ်လျက် တစ်ထပ်တည်းကျနေအောင် စီစဉ်ခြင်းသာ ဖြစ်၏၊ စာသင်ချိန်က တခြား, ကျင့်ချိန်က တခြား မဖြစ်စေလို၊ ကျင့်ဖွယ်ရာတွေ သိမှတ်စရာတွေ များစွာပါရှိသော ပါဠိတော်ကြီးများ, အဋ္ဌကထာကြီးများကို မြန်မြန် သိနိုင်အောင်, လွယ်လွယ်သိရအောင် အရောက်ပို့ပေးခြင်း ဖြစ်ပေသည်၊ လိုရင်းခရီးသို့ မြန်မြန်ရောက်စေသောနည်း ဖြစ်၏၊ ဤသည်ကိုပင် အများက သိမြင်နေကြသည်မှာ "အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက် အရှင်ဇနကာဘိဝံသ၏ စာသင်နည်းက စာတတ်လွယ်သည်"ဟူ၍ ဖြစ်သတည်း။



"ညှံ့ဖြည်းမွေ့မွေ့၊ တရွေ့ရွေ့လျှင်၊ တစ်နေ့တစ်ထူး၊ ကျေးဇူးခဲ့ထွင်၊ ကျမ်းရိုးငင်လျက်"

## သမ္ဗန္ဓရာကြီးပမာ တရွေ့ရွေ့ နက်ရှိုင်း၍လာ

### အခြေခံမျှသာ ကောင်းတာပါတဲ့

အချို့စာသင်သားတို့မှာ အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်၌ ငါးလ ခြောက်လမျှ နေပြီးလျှင် ပြေးတတ်ကြ၏၊ အချို့လည်း တစ်နှစ်၊ တစ်နှစ်ခွဲမျှလောက် ပေတေနေတတ်ကြသေးသည်၊ စောစောပိုင်းက မဟာဂန္ဓာရုံတိုက်၏ ရာသီဥတုမှာ အပူအအေး မမျှ ကြမ်းတမ်းလှ၏၊ သစ်ကြီး ဝါးကြီးအရိပ်များ၍ ငှက်ဖျားလည်း ရှိ၏၊ အစားအသောက်ဆင်းရဲ၏၊ အနေအထိုင် စည်းကမ်းကြီး၍ ကြပ်တည်းလှ၏၊ ဝိနည်းကိုလည်း လေးစားရ၏၊ သေနာသန ဝေယျာဝစ္စလည်း များ၏၊ ဆရာတော်၏ အရှိန်အဝါ၊ အဆုံးအမ ဩဝါဒတို့ဖြင့် ဖိထား၏၊ မလွတ်မလပ် မွန်းကြပ်နေသလို ဖြစ်သည်။

ထို့ကြောင့် လွတ်လပ်မှုကို လိုလားသူတို့မှာ ကြာကြာ မနေနိုင်၊ ပြေးတတ်ကြ၏၊ ထိုပုဂ္ဂိုလ်တို့အဖို့ တိုးတက်မှု များများ ရမသွားနိုင်ပါ၊ အခြေခံပိုင်းမျှသာ ရှိပါသေးသည်။

အချို့ကျပြန်တော့လည်း ခုရေတွင်း တူး၍ ခုပင်ရေချိုး သောက်ချင်သလို အခု စာသင်၊ အခုပင် စာမေးပွဲအောင်ချင်ကြ၏၊ ဆရာတော် အရှင်ဇနကာဘိဝံသ၏ မူနှင့်မကိုက်ချေ၊ ဆရာတော်က "စာကို ဖြည်းဖြည်းသင်"ဟု မိန့်တတ်၏။

ထို့ပြင် ဆရာတော်၏ စာသင်နည်းမူစနစ်မှာ "အပ်ရာမသည်း၊ နားထွင်းနည်းသို့၊ ညှံ့ဖြည်းမွေ့မွေ့၊ တရွေ့ရွေ့ ခဲ့ထွင်လာရသောနည်း၊ အနိမ့်မှ အမြင့်သို့ အဆင့်ဆင့် တရွေ့ရွေ့ တောင်ထပ်သို့ တက်ရသောနည်းဖြစ်၍ ခရီး မတွင်သလို ထင်ရ၏၊ အရေးကြီးသော ပုဂ္ဂိုလ်တို့အဖို့ ဤစနစ်ကို အားမရနိုင်သလို ဖြစ်ပါလိမ့်မည်။

ထိုအကြောင်းကြောင့်လည်း ပြေးကြသူများရှိသည်၊ ထိုပုဂ္ဂိုလ်များက ပြော၍ သွားတတ်ကြ၏၊ "တောင်မြို့ ဂန္ဓာရုံတိုက်ဟာ အခြေခံလောက်သာ ကောင်းတာပါကွာ"ဟူ၍ ဖြစ်သည်။

## တောင်ခြေမှ လှည့်ပြန်ရသူကဲ့သို့

ထိုသို့ ပြောသူများမှာ အခြေခံပိုင်းမျှလောက်သာ သင်ယူသွားရသူများ ဖြစ်ပါလိမ့်မည်၊ ဂန္ဓာရုံတိုက်တွင် သင်ရိုးကုန်အောင် မသင်, ကျမ်းရိုးကုန်အောင် မလိုက်ဘဲ အခြေခံ အခိုက်အတန့်မျှဖြင့် ပြန်လည်သွားရသူ ဖြစ်ပါလိမ့်မည်၊ အဖိုးတန် စိန်ကောင်း ကျောက်ကောင်း ရတနာကောင်းတွေ ရှိသော တောင်ထိပ်ပေါ်သို့ ရောက်အောင် မတက်ဘဲ တောင်ခြေတွင် လွယ်လွယ်ရသော ကျောက်ဖြုန်း ကလေးများကို ကောက်ယူပြန်သွားသူကဲ့သို့ ဖြစ်တော့သည်။

တစ်နည်းအားဖြင့်လည်း မဟာဂန္ဓာရုံကျောင်းတိုက် ပညာသင်ကြားရေးစနစ်ကြီးသည် ပင်လယ်သမုဒ္ဒရာကြီးနှင့် တူပြန်၏၊ ပင်လယ်သမုဒ္ဒရာကြီးသည် ပတ်ပတ်လည် ကမ်းအစတို့၌ ဘာမျှ မနက်လှပါ၊ အလွန်တိမ်လှပါ၏၊ အတွင်းဘက် အနည်းငယ် ခရီးပေါက်အောင် လျှောက်ကြည့်သောအခါမှ အတော်ကလေး နက်လာသည်ကို တွေ့ရပါမည်၊ ထို့ထက်ပိုပြီး အတွင်းရောက်အောင် လျှောက်၍ ထောက်ကြည့်သောအခါတွင်ကား အောက်ခြေကို မထောက်မိအောင် အလွန့်အလွန် နက်ရှိုင်းလှသည်ကို တွေ့ရပါပေမည်။

ထိုဥပမာအတိုင်းပင် တောင်မြို့ မဟာဂန္ဓာရုံကျောင်းတိုက်၌ ကမ်းအစမျှလောက်သာ ထောက်ကြည့်ဖူးသူတို့က တိမ်သည်ဟု ပြောကြ၏၊ အတွင်းဘက်သို့ အနည်းငယ်ရောက်ဖူးသူတို့က အတော်အတန် နက်သည်ဟု ဆိုကြသည်၊ အလယ်ခေါင်သို့ တိုင်အောင် သွားဖူးသူတို့ကား ခြေထောက်ကို မမီအောင် နက်ရှိုင်းသည်ဟု ဝန်ခံကြတော့သည်။

## ဦးစားမပေးလည်း အရေးမနိမ့်လှပါ

ဆရာတော်က စိတ်ကောင်း စေတနာကောင်း ရှိဖို့နှင့် သီလ သမာဓိ ဖြူစင်ဖို့ကိုသာ ဦးစားပေး၍ ဆုံးမတတ်၏၊ ဂုဏ်လာဘ်ကို မျှော်တွေး၍ ရှေ့လောတကြီး ပညာသင်ကြားရေးကို ဦးစားမပေးပါ၊ "စာကို ဖြည်းဖြည်းသင်"ဟုသာ ခဏခဏမိန့်တတ်ပါသည်၊ ထိုသို့ ပညာရေးကို ရှေ့တန်းတင်၍ ဦးစားမပေးသော်လည်း ဦးစားပေး၍ သင်ကြားနေသော ကျောင်းတိုက်တို့ထက် ထူးထူးခြားခြား မနိမ့်ကျလှပါ၊ အဘယ့်ကြောင့်ဆိုသော် ချထားသောမူ, ရရှိထားသောမူက အခြေခံခိုင်မာကြသဖြင့် မကြာလှသော နှစ်အတွင်းမှာပင် တရိပ်ရိပ် တက်လာတတ်ကြပါသည်၊ ဆရာတော်၏ ပညာရေးမူစနစ်မှာ ဤသို့သာ ဖြစ်ပါ၏၊ ခက်သည်ဟု မထင်လိုက်ရဘဲ တရွေ့ရွေ့ တက်လာသောနည်း ဖြစ်ပေသည်။

ဆရာတော် အရှင်ဇနကာဘိဝံသ၏ ကျောင်းတိုက်မှာ ၁၂ နှစ်အောက်အရွယ်ကလေးငယ်များဆိုလျှင် သင်္ကန်းကို မနိုင်သေး၍ ဖိုးသူတော် ဝတ်ပေးထားပါသည်၊ ၁၃ နှစ် ၁၄ နှစ် စသည်ရှိမှ သင်္ကန်း ဝတ်ပေးပါ၏၊ ပညာရေးတွင်မူကား ...



"ဘာစာတွေလိုက်နေသလဲ ဦးသူတော်"

ဖိုးသူတော်ဖြစ်စေ, သာမဏေငယ်ဖြစ်စေ သူ့အဆင့်နှင့်သူ တူရာကို ပေါင်း၍ အခြေခံကောင်းအောင် သင်ယူကြရ၏၊ ထို့ကြောင့် အချို့ ဖိုးသူတော်ကလေးများမှာ သက်န်းမဝတ်ရသေးသော်လည်း အခြေခံမှာ မည့်တော့ပေ၊ သာမဏေ ခပ်ရွယ်ရွယ်များနှင့် တန်းတူ လိုက်နေချေပြီ။

ဆရာတော် အရှင်ဇနကာဘိဝံသ၏ ကျောင်းတိုက်သို့ သွား၍ကြည့်လျှင် စာတက်ချိန်ရောက် တုံးခေါက်ချိန်မှာ ဖိုးသူတော်ကလေးများ, ကိုရင်ကလေးများ၏ ပခုံးပေါ်၌ သားရေနယ် ပိဋကတ်စာအုပ် ထူထူကြီးတွေ ထမ်းလာကြသည်ကို (သို့မဟုတ်) ရင်ဝယ်ပိုက်လာကြသည်ကို တွေ့နိုင်ပါသည်။

"ဘာစာတွေ တက်မလို့လဲ ဦးသူတော်, ဘာစာတွေ လိုက်မလို့လဲ ကိုရင်လေး"လို့ သွား၍မေးပါလျှင် "အင်္ဂုတ္တိုရ်ပါဠိတော် တက်မယ်လို့" အချို့က "ဓမ္မပဒအဋ္ဌကထာဆိုမယ်လို့" အချို့က "မဟာဝါပါဠိတော်လိုက်မယ်လို့"ဟု ပြန်၍ ဖြေကြသည်ကို ကြားရမည် ဖြစ်သတည်း။

## ဆောင်ရွက်ဖို့အခြေအနေပေးခြင်းများ

### အမရပူရမြို့ မဟာဂန္ဓာရုံတိုက်

ဆရာတော် အရှင်ဇနကာဘိဝံသသည် "ပြုပြင်လျှင် ဘာမဆို နုယဉ်မည်"ဟူသောအားမာန်အပြည့်ဖြင့် မိမိ အုပ်ချုပ်ရာ အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်ကြီးကို စတင် ပြုပြင်စမ်းသပ်ကြည့်၏၊ ထိုသို့ ပြုပြင်ရာ၌ (က) သက်မဲ့ရုပ်ဝတ္ထုပြုပြင်ခြင်း, (ခ) သက်ရှိပုဂ္ဂိုလ်ပြုပြင်ခြင်းဟူ၍ နှစ်မျိုးရှိမည်ကိုလည်း အကြမ်းစားအားဖြင့် ခွဲခြားထားလိုက်၏၊ သက်မဲ့ဝန်းကျင်အခြေအနေတို့မှာ စာရေးသောဆရာတော် အရှင်ဇနကာဘိဝံသအတွက် သက်သက်ဖြစ်လာသလို ထင်ရ၏၊ မြင်သာအောင် ဖော်ပြပါမည်။

**၁။ သက်မဲ့ဝန်းကျင်အခြေအနေ**

(က) မဟာဂန္ဓာရုံကျောင်းတိုက်သည် အမရပူရမြို့၏ အရှေ့ဘက်တွင် မြို့နှင့်အလှမ်းမဝေးလှပါ၊ နီးစပ်လျက်လည်း မနေပါ၊ "ဂါမနာဂါမန္တ သမ္ပန္န"ဟု ဆိုရလောက်အောင် သွားလို့လာလို့ သင့်တော်ရုံ အနေအထားမျှသာ ရှိ၏၊ ဝေးလည်း မဝေးလွန်း, နီးလည်း မနီးလွန်း ဖြစ်သည်။

(ခ) ရှေးက စစ်ကိုင်း မဟာဂန္ဓာရုံဆရာတော်ကြီးများ စသော ဆရာတော်ကြီးများအဆက်ဆက် နှစ်သက်မွေ့လျော်စွာ သီတင်းသုံးတော်မူခဲ့ရာ ကမ္မဋ္ဌာန်းကျောင်းတိုက်ဖြစ်၍လည်း နဂိုမူလ သဘာဝအတိုင်းပင် တိတ်ဆိတ်လျက် ရှိပါသည်။

(ဂ) နေ့အခါတွင် လူသူလေးပါး ဖြတ်သန်း သွားလာမှု နည်းပါး၍ ညအခါတွင်လည်း အုတ်အုတ် အုတ်အုတ်နှင့် မြို့ရွာအူသံ ဆူညံမှုမရှိဘဲ လူသံကင်းဆိတ်လျက်ရှိသည်။

(ဃ) ကျောင်းတိုက်၏အနောက်ဘက်တွင် အတော်ဝေးသော အစွန်အဖျားရောက်မှသာ လူနေအိမ်ခြေတို့ကို တွေ့ရမြင်ရ၏။

(င) မြောက်ဘက်ခပ်လှမ်းလှမ်းတွင် စိမ်းစိုရှင်လန်းသော စိုက်ခင်း ပျိုးခင်း သီးနှံခင်းများနှင့် ကျော်အောင်စံထားကျောင်းတိုက်ကြီးက ခြားလျက် ရှိသည်။

(စ) တောင်ဘက်တစ်ခွင်တွင်မူ ဘုရားပုထိုးစေတီများစွာရှိသော တောင်လေးလုံးကျောင်းတိုက်, အောင်ခြင်းရှစ်ပါးကျောင်းတိုက်များနှင့်ရာဇဝင်ထင်ရှား မိုင်ဝက်ခန့်ရှည်လျား၍ စနစ်တကျ စဉ်တန်းလျက် များပြားသော မယ်ဇယ်ပင်တန်းများအပြင် ဦးပိန်တံတားကြီးပါ တည်ရှိ၏။

(ဆ) အရှေ့ဘက်တွင် အလွန်ကျယ်ပြန့်သော ပြာလဲ့လဲ့ တောင်သမန်အင်းရေပြင်ကြီးသည် နယုန်လလောက်မှစ၍ တန်ဆောင်မုန်း နတ်တော်လလောက်အထိ သာယာကြည်နူးဖွယ် တည်ရှိခြင်းဖြင့်လည်းကောင်း, နွေဥတုအရောက်မှာ... အင်းထဲတွင် ပေါ်လာသော

နုံးမြေပြင်၌ စိုက်ပျိုးကြသော မုယင်းစပါးများနှင့် ပဲ ပြောင်း လူးဆတ် ရေုတ် သခွားယာခင်းများက စိမ်းလန်းစိုပြည်စွာ တည်ရှိကြခြင်းအားဖြင့်လည်းကောင်း, ထို့အပြင် အင်းကမ်းနဖူးတွင် တင့်တယ်စွာ စံပယ် သီတင်းသုံးလျက်ရှိတော်မူသော ကျောက်တော်ကြီးဘုရားစေတီတော်၏ ထုံးဖွေးဖွေး ရှုခင်းသာဖြင့်လည်းကောင်း အလွန်သာယာ ပဏာရစွာ တည်ရှိကြပါသည်။

(၉) ထို့ပြင်လည်း မိုးအခါတွင် ပြာလဲ့လဲ့အင်းရေပြင်, ဆောင်း နွေအခါတွင် စိမ်းလဲ့လဲ့ စိုက်ခင်းပြင်တို့ အပေါ်မှ ဖြတ်သန်းတိုက်ခတ်လာကြသော လေကောင်းလေသန့်တို့ကလည်း ပန်းရနံ့တို့ကို ပွေ့ယူသယ်ဆောင်လာတတ်ကြကုန်၏၊ ပြီးလျှင် ကျောင်းအတွင်းသို့ တညင်းညင်းနှင့် အမြဲတမ်း ဆောင်သွင်းလှူဒါန်းကြလေသည်။ (ဤမြင်ကွင်းကျယ် တောင်သမန်အင်းစောင်းမှ တိတ်ဆိတ်သော သစ်သားကျောင်းကလေးပေါ်တွင် ဆရာတော် အရှင်ဇနကာဘိဝံသ အမြဲတမ်းစာရေးလေ့ရှိတော်မူသည်။)

(၁၀) ဤသို့လျှင် ပတ်ဝန်းကျင် သက်မဲ့အနေအထားသဘာဝအားဖြင့် သာယာလျက်ရှိသော ကျောင်းတိုက်ကြီးအတွင်းဝယ် ကြီးကြီး ငယ်ငယ် အဆောက်အအုံများနှင့် ကျောင်းတိုက်ဝင်းကြီးကို သန့်ရှင်းနိုင်သမျှ သန့်ရှင်းအောင် ပြုပြင်ပြီးလျှင် ယင်းအတွင်းသို့ သက်ရှိပုဂ္ဂိုလ်များကို သွင်း၍ အစွမ်းကုန် ပြုပြင်တော်မူထားသည်။

## ၂။ သက်ရှိများကို ပြုပြင်ခြင်း

(က) ဤကျောင်းတိုက်တာအတွင်း၌ လာရောက်နေထိုင်လိုသော ပုဂ္ဂိုလ်များသည် အသက်အားဖြင့် ရဟန်းဖြစ်လျှင် သုံးဝါထက် မကြီးစေရ, သာမဏေဖြစ်လျှင် ၁၀ နှစ်မှ အသက် ၁၈ နှစ် ၁၉ နှစ်အထိ, ၈ နှစ်မှ ၁၀ နှစ်အတွင်း သူငယ်များကိုကား ဝတ်ဖြူစင်ကြယ် ဖိုးသူတော်ကလေးများ ဝတ်၍ထားသည်။ (ကျောင်းသားဟူ၍ မရှိရ, ထို့အောက် ငယ်လျှင်လည်း လက်မခံ။)

(ခ) ဤတိုက်တာသို့ လာသောအခါ မူလပင်ရင်းဆရာဘုန်းတော်ကြီးကိုယ်တိုင် (သို့မဟုတ်) မိဘကိုယ်တိုင် လိုက်ပါအပ်နှံရမည်၊ ကပ္ပိယကာရက ကျောင်းသား ဒါယကာ စသည် တစ်ဦးဦး ပါခဲ့ရမည်၊ ဝတ္ထုကြေးငွေ ပါလျှင် ဂန္ထာရုံသို့ ရောက်သောအခါ ကပ္ပိယကာရကအထံမှာဖြစ်စေ, ဖိုးသူတော်ကလေးများထံမှာဖြစ်စေ အပ်နှံရမည်၊ မိမိနေရာ မိမိသေတ္တာ စသည့် အထဲတွင် ကိုယ်တိုင် သိမ်းဆည်းမထားရ။

(ဂ) ခြေလက်အင်္ဂါ ပြည့်စုံသူဖြစ်စေရမည်၊ ကြည်ညိုဖွယ် ဥပမိရုပ် ရှိစေရမည်၊ ယောက်ျားပီသသောလက္ခဏာနှင့်ပြည့်စုံရမည်၊ အများကြည်ညိုဖွယ်ကင်းလောက်အောင် ဥပမိရုပ်ညံ့သူ မဖြစ်စေရ, အင်္ဂါမချွတ်ယွင်းစေရ၊ ကျန်းမာရေးလည်း ကောင်းရမည်။ (ဤအင်္ဂါရပ်များပြည့်စုံရေးအတွက် လက်ခံသောအခါ ဆရာတော် ကိုယ်တိုင် လူတွေ့ပြီးမှ လက်ခံသည်၊ ယခုခေတ်အခါ အင်တာဗျူး လုပ်ပြီးမှ စစ်ဆေးလက်ခံသည်။)

(ဃ) ဉာဏ်အလွန်မကောင်းသော်လည်း စိတ်ထားကောင်းသူ, သဒ္ဓါတရားရှိသူ, ဖြောင့်မတ်သူဖြစ်စေရမည်။ (ဉာဏ်လည်းကောင်း, စိတ်ထားလည်း ကောင်းဆိုလျှင်ကား ပြောဖွယ်မရှိပြီ။)

(င) သက်နှံအညိုရောင် ဆိုးခဲ့ရမည်။ (ပိန္နဲသွေးရင့်ရင့်အရောင်, ညောင်ခေါက်ဆိုးအရောင်, ရှားသွေးပျော့ပျော့အရောင်များဖြစ်စေရမည်။)

(စ) ထို့ပြင် ကျောင်းတိုက်အတွင်းမှာ နေနိုင်ရေးအတွက် အစစ အရာရာ ပြောဆိုဆုံးမမည့်သူ အာမခံပုဂ္ဂိုလ် ရှိရသေးသည်။ (စောစောကကြိုတင်၍သော်လည်းကောင်း, သို့မဟုတ် တိုက်ထဲရောက်ခါမှ လိုက်လံရှာဖွေ၍သော်လည်းကောင်း အာမခံပုဂ္ဂိုလ် ရှိစေရသည်။)

(ဆ) ကျောင်းတိုက်သို့ ရောက်လာပြီးနောက် နေရာချထားပေး၍ နေရာရပြီးလျှင် လက်ရှိပုဂ္ဂိုလ်များထံမှာ သက်နှံးညီညီဝတ်ပုံ, ဣန္ဒြေရရရှုံပုံ, ချပ်ချပ်ရပ်ရပ်ရန်းပုံတို့ကို သင်ယူရသည်။ (သက်နှံး ရှည်နေလျှင် ဖြတ်, တိုလျှင် ဆက်

ပြုလုပ်ရမည်၊ အနေတော် အံကိုက်ဖြစ်စေရ၏၊ ထိုကိစ္စများအတွက် အပ်ချုပ်စက်တစ်ခု ဖန်တီးပေးထားသည်။)

(ဇ) ပုံပန်း သွင်ပြင် အမူအရာ လိမ္မာ ယဉ်ကျေးအောင် ကိုယ်နှုတ်နှစ်ပါးလုံးကို ပြုပြင်ရ၏၊ အချို့က ကိုယ်အမူအရာ ကြမ်းတမ်း ရိုင်းပျနေတတ်၏၊ သိမ်မွေ့လာအောင် ပြုပြင်ရသည်၊ အချို့က နှုတ်ထော်အာကြမ်း ပရမ်းပတာ ရှိတတ်၏၊ ယဉ်ကျေးစွာ ပြောဆိုတတ်အောင် အလေ့အကျင့် လုပ်ရသည်။

(ဈ) နေ့စဉ်နံနက်တိုင်း အရုဏ်တက်လျှင် အညာဒေသထွက် စွန်တာနီ ပဲပြုတ် တစ်ခွက်၊ ချဉ်ပေါင်ဟင်းတစ်ခွက် ပေါင်းနှစ်ခွက်မျှဖြင့် အရုဏ်ဆွမ်းကျွေးသည်။ (ဒင်းဟင်းနှစ်ခွက်ကား ဂန္ဓာရုံတိုက် တည်သည်မှ ယနေ့တိုင်အောင် ကပ္ပိဋ္ဌိတိ တစ်ပါးအပါအဝင်အဖြစ် တည်လျက်ရှိသတည်း။)

(ည) အရုဏ်ဆွမ်းစားပြီးလျှင် စာမမြင်ရသေးခင်အချိန်မှာပင် တုံးခေါက်၊ တစ်နေရာမှာ သံဃာအားလုံး စုရုံးစေလိုက်၏၊ ပြီးလျှင် (ဣတိပိသော ဘဂဝါ)စသော ဂုဏ်တော်ပါဠိအနက်များ၊ ဓမ္မစကြာပါဠိတော်၊ အနတ္တလက္ခဏသုတ်၊ ဒသဓမ္မသုတ်၊ (ဣဓ ဘိက္ခဝေ တထာဂတော လောကေ ဥပ္ပဇ္ဇတိ)စသော သာသနာတော် ဖြစ်ပေါ်လာပုံအစဉ်ပြပါဠိတော်များနှင့် အခြားသော လိုက်နာမှတ်သားဖွယ်ပါဠိတော်များကို သံပြိုင်ညီညီ အလှည့်ကျ ရွတ်စေ၍ အဓိပ္ပာယ်ပြောပြခြင်း၊ ခဲရာခဲဆစ်တို့ကို ရှင်းပြခြင်း ပြုတော်မူ၏။

ဤနေရာမှာပင် စိတ်နေစိတ်ထားကောင်းလာအောင်၊ သဒ္ဓါတရား တိုးပွားလာအောင်၊ အသိအလိမ္မာ ရင့်ကျက်လာအောင် ဩဝါဒပေးခြင်း၊ သွန်သင်ခြင်း၊ ဆုံးမခြင်းများ ပြုတော်မူသည်၊ ဤအကွက်ကား အများနှင့်မတူသော အကွက်ဖြစ်၏၊ အခြားသော ဆရာတော်များ တစ်ပါးမှ မလုပ်သောအလုပ် ဖြစ်သည်၊ လုပ်လည်း မလုပ်နိုင်ကြ၊ လုပ်နိုင်ဖို့လည်း အခွင့်မရကြ။

ဤမြင်ကွင်း မြင်ကွက်သို့ ရောက်သွားရသူ အပေါင်းကား ကြက်သီးဖျန်းဖျန်းထကြရသည်၊ နှလုံးစိတ်ဝမ်း ငြိမ်းချမ်းကြရသည်၊ ဘဝင်အသည်း အေးမြကြရသည်၊ ဘာကို တန်း၍ လွမ်းသည်မသိ၊ ဝမ်းသာသည့်အရာတို့က ရင်ဝယ်ဆို့၍ မျက်ရည်စို့ကြရသည်၊ မစို့ရဘဲ ခံနိုင်မည်လော။

အပေါင်းအစု အထုအထည်နှင့် သံပြိုင်ညီညာ ရွတ်ဆိုကြသော သံဃာတော်များ၏ တည်ငြိမ်သော ပါဠိတော် အသံ၊ မေတ္တာကရုဏာသံနှော၍ အဓိပ္ပာယ်ပြောပြနေသော ဆရာတော် အရှင်ဇနကာဘိဝံသ၏ အေးမြသာယာသော အသံအနေအထား၊ အကြောင်းအားလျော်စွာ တိုက်ဆိုင်လာသောအချက်တို့နှင့်ပတ်သက်၍ မိန့်မြွက်သောဩဝါဒ၊ အလွန်ငြိမ်သက်လှစွာ အရှေ့လောကဓာတ်မြေမှ လင်းရောင်ခြည် ယှက်သန်း၍ နေဝန်းနီနီပေါ်လုလုအချိန်အခါ၊ မင်္ဂလာအရှိဆုံး ဖြစ်သော နံနက်ခင်း ကာလ၌ ဟောပြသော ဩဝါဒတို့ကြောင့်ပင် ဖြစ်ပေသည်။

(ဋ) ထို့နောက် သံဃာတော်အားလုံး ဖြည်းဖြည်းအေးအေး သံပြိုင်ညီညာ တည်ငြိမ်စွာဖြင့် မြန်မာဘာသာအားဖြင့် မေတ္တာပို့သကြရသည်။

(၁) အရှေ့အရပ်၌နေကြသော ကမ္ဘာသူ ကမ္ဘာသား သတ္တဝါအများတို့သည် ဘေးရန် ကင်းကွာ ကျန်းမာ ချမ်းသာကြပါစေ။
(၂) အရှေ့တောင်ထောင့်အရပ်၌ (ပေ) ပါစေ။
(၃) တောင်အရပ်၌ (ပေ) ပါစေ။
(၄) အနောက်တောင်ထောင့်အရပ်၌ ။
(၅) အနောက်အရပ်၌ ။
(၆) အနောက်မြောက်ထောင့်အရပ်၌ ။
(၇) မြောက်အရပ်၌ ။
(၈) အရှေ့မြောက်ထောင့်အရပ်၌။
(၉) အရှေ့အရပ်၌ (ပတ်မိအောင်ထပ်ဆို) ။
(၁၀) အထက်အရပ်၌ ။
(၁၁) အောက်အရပ်၌ ။

**ဤကုသိုလ်အဖို့ကို မိဘဆရာ၊ သံဃာတော်အပေါင်း၊ ဒါယကာ ဒါယိကာမအပေါင်း၊ နတ်အပေါင်းနှင့် တကွ**

**သတ္တဝါဟူသမျှတို့အား အမျှ ပေးဝေပါကုန်၏၊**
**အမျှ ရကြပါစေကုန်သတည်း။**
**"သာဓု, သာဓု, သာဓု"**

အပေါင်းအစု အထုအထည်နှင့် တကွ သံပြိုင်ညီညီ ပို့လိုက်ကြသော မေတ္တာအသံ လှိုင်းလုံးကြီးသည်လည်းကောင်း, နှလုံးသည်း ပွတ်များမှ ဖြစ်ပေါ်လာသော မပြင်အပ် စကောင်းသော အပြစ်ကင်းလတ် ချမ်းမြေ့သော မေတ္တာစာတ်တို့သည်လည်းကောင်း ခန်းမကြီးတစ်ခုလုံး ပွင့်မတတ်, တွန်းကန် လျှံထွက်သွားကြ၏၊ ထိုမှတစ်ဆင့် ဘုံမြင့်အလိုက် ကျောင်းတိုက်ဥယျာဉ်ကြီးတစ်ခုလုံး ပျံ့နှံ့ဖြတ်သန်း၍ ဒါယကာ ဒါယိကာမတို့၏ မြို့ ရွာ နယ်ပယ်အနှံ့ ပြန့်ကာပြန့်ကာ သွားမည်သာတည်း၊ ယင်းမှ နောက်၌ကား ရေပြင်တွင် ခဲချ၍ ပြန့်သွားရသော စက်ဝိုင်းလှိုင်းပမာ မဟာဘုတ် အဆက်ဆက် သက်ကာသက်ကာ စကြဝဠာတိုင် ရောက်ကြမည်သာတည်း။

(၄) ထို့နောက် ပရိသတ်ထဲမှ အလွန်ငယ်ရွယ်သူများကို ပြန်လွှတ်၍ ကျန်သော အလတ်ပိုင်း အကြီးပိုင်း သံဃာများအား ပါဠိတော် အဋ္ဌကထာ စာတစ်ဝါကို ဆွမ်းခံမသွားမီ အချိန်ရသမျှ လုံ၍ ပို့ချပေးတော်မူသည်။

(၅) ထို့နောက် နေ့ဆွမ်းအတွက် အမရပူရမြို့ထဲနှင့် ဝန်းကျင်အရပ်တို့တွင် အားလုံးလိုလိုပင် ဆွမ်းခံဝင်ကြ ကြွကြရသည်၊ (ဆွမ်းမခံဘဲ ဆွမ်းစားနိုင်သည်ဟု ဂုဏ်မယူစေဘဲ ဘုရားမြတ်စွာနှင့် သာဝကအဆက်ဆက်တို့ ဆွမ်းခံတော်မူကြသည်ကို ကြည်ညိုအားကျစေလျက် "ငါတို့ အမြဲဆွမ်းခံစားသည်"ဟူသော ဂုဏ်ကိုသာ မြိန်မြိန်ကြီးယူဖို့ရန် သြဝါဒပေးပါသည်။)

(၆) နံနက် ၆ နာရီခွဲ ၇ နာရီလောက်မှ ၈ နာရီလောက်အထိ သံဃာတော်များ ဆွမ်းခံကြွနေချိန်တွင် ဆရာတော် တစ်ပါးတည်း ကျောင်းတိုက်၌ စာရေး၍ ကျန်ရစ်သည်။

(၇) ဆွမ်းခံရာမှ ပြန်ရောက်လာကြသော သပိတ်များကို နေသားတကျ သိမ်းဆည်းထားကြပြီးလျှင် အချို့က စာချ, အချို့က စာလိုက်ကြရသည်။

(၈) နံနက် ၁၀ နာရီလောက်တွင် စာဝါများကို ရပ်သိမ်းစေ၍ ရေမိုးချိုးစေပြီးလျှင် ၁၀ နာရီခွဲတွင် နေ့ဆွမ်းဘုဉ်းပေးကြရသည်၊ (နေ့ဆွမ်း ဘုဉ်းပေးရာတွင် ပွဲတိုင်း ပွဲတိုင်း ဟင်းနှစ်ခွက်စီလောက် ရအောင် ဆရာတော်က စီမံပေးသေးသည်။)

(၉) နေ့ဆွမ်းစားပြီးလျှင် ခေတ္တ နေ့သန့်စင်၍ နေ့ ၁ နာရီမှ စတင်ကာ စာဝါများကို ပို့ချ သင်ယူကြရပြန်သည်၊ နေ့လယ်ပိုင်းတွင် ဆရာတော်က စာဝါနှစ်ဝါလောက် ပို့ချပေးမြဲ ဖြစ်သည်။

(၁၀) ညနေ ၄ နာရီထိုးလျှင် အားလုံး စာဝါတွေ ရပ်နားကြ၏၊ ကျောင်းတိုက် သေနာသနဝေယျာဝစ္စအလုပ်တို့ကို ကိုယ်စီကိုယ်င ကိုယ့်တာဝန်အရ ပြုလုပ်ကြရသည်။

(၁၁) ညနေ ၅ နာရီခွဲလျှင် ချင်း ဆားတို့ဖြင့် မွှမ်းမံ၍ ကျိုထားသော ထန်းလျက်ရည်ကို အဆာပြေ သောက်ရန် တစ်ပါးလျှင် မတ်ခွက်ဖြင့် တစ်ခွက်ကျစီ ဝေပေးသေးသည်။

(၁၂) ညနေ ၆ နာရီထိုးလျှင် ကြေးစည်ခေါက်၍ စုရုံးပြီးလျှင် ဘုရားဝတ်တက်ကြရသည်၊ ဘုရားဝတ်တက်ပြီးနောက် မိမိတို့ တစ်နေ့တာ သင်ယူခဲ့ရသော စာ, ကျက်ခဲ့ရသော စာတို့ကို မမေ့အောင် တိုးတိုးတိတ်တိတ် ပြန်နိုင်သည်။

(၁၃) ည ၈ နာရီထိုးလျှင် တုံးခေါက် အချက်ပေး၍ စာပြန်မှုအားလုံး ရပ်ကြရကာ ကမ္မဋ္ဌာန်းဘာဝနာ ရှုပွားကြရသည်။

(၁၄) ည ၉ နာရီတွင် နောက်တစ်ကြိမ် တုံးခေါက်အချက်ပေးမှ ဘာဝနာအလုပ်ကို ရပ်ရပြီးလျှင် အိပ်ရာဝင်ကြရသည်။ (နောက်ထပ် ယနေ့ည စာမပြန်ကြရတော့။)

(၁၅) နံနက် ၄ နာရီတွင် တုံးကြီးခေါက်၍ တစ်ကျောင်းတိုက်လုံး အိပ်ရာမှ ထကြရသည်၊ ပြီးလျှင် အရုဏ်တက်သည့်တိုင်အောင် ကိုယ့်နေရာကိုယ် ငြိမ်သက်စွာ ထိုင်၍ ဗုဒ္ဓါနုဿတိ စသည်ဖြင့် ဘုရားအာရုံပြုခြင်း, မေတ္တာပို့ခြင်းများဖြင့် ငြိမ်သက်စွာ နေကြရသည်။

(ဘ) အရုဏ်တက်လာသောအခါ ယခင်နေ့များကလို သံချောင်းခေါက်၍ ဆွမ်းစားကျောင်းသို့ ကြွကာ အရုဏ်ဆွမ်းစားခြင်းပြီးလျှင် ဩဝါဒခံရာသို့သွားခြင်း, ဩဝါဒနာယူခြင်း, စာတက်ခြင်း စသည်ဖြင့် နေ့စဉ် အလုပ်စက် ပတ်လည်လာပြန်သည်။

(မ) ဤသို့လျှင် ဆရာတော်က အရုဏ်ဆွမ်း ကျွေး၍ နေ့ဆွမ်းတွင်လည်း စား၍ ဖြစ်လောက်အောင် ဟင်း နှစ်ခွက်စီ ပေး၍ ကျွေးမွေးစောင့်ရှောက် ပြုစုတော်မူသည်။

(ယ) ဤသို့ ပေးနိုင်သဖြင့်လည်း "တပည့်တို့ ဆွမ်း, ဆွမ်းဟင်း မဖိတ်ကြနှင့်၊ သူတို့ အလိုအလျောက် "အိမ်ပေါ် ကြွပါ"လို့ ပင့်မှသာ အိမ်ပေါ်ထိုင်ပါ၊ သို့မဟုတ်လျှင် ကိုယ့်ဘာသာကိုယ် တရားသဖြင့် အိမ်ရှေ့မှာ ရပ်ပါ၊ လောင်းလှူသမျှနှင့် ကျေနပ်ကြပါ"ဟု ဩဝါဒ ပေးနိုင်ခြင်း ဖြစ်သည်။

(ရ) ဆွမ်းကိုသာမက သက်န်းကိုလည်း ဝါဆိုဦးတွင် တစ်ပါး တစ်စုံစီလောက် ရအောင် စီမံပေးတတ်သေးသည်။ (နောင်အခါ ဝါဆိုဦးတစ်စုံ, ဝါကျွတ်တစ်စုံ တစ်နှစ်လျှင် နှစ်စုံစီလောက် ရလာသည်။)

(လ) ဤသို့လျှင် ဆွမ်းကိုလည်း ကျွေး, သင်္ကန်းကိုလည်း ပေး၍ ပညာကိုလည်း အလကားသင်ပေးကာ အရာရာတွင် အထက်တန်းရောက်အောင် ချီးမြှောက်တော်မူသည်။

(ဝ) ထို့ပြင် နေမကောင်း ထိုင်မသာ မကျန်းမာသောအခါတွင် ဆေးဝါးဖြင့်လည်း ကုသပေးသေးသည်၊ နေထိုင်မကောင်းလျှင် သီးသန့်သတ်မှတ်ထားသော "ဂိလာနကျောင်း"သို့ ခေတ္တ ပြောင်း၍ နေရ၏၊ အတော်အတန် ဖျားနာမှုဆိုလျှင် မြန်မာ ဆေးဝါးများဖြင့် ပျောက်ကင်းစေ၏၊ ကြီးကျယ်သော ရောဂါဆိုလျှင် ဆရာဝန်ကို ခေါ်၍ ကုသစေ၏။

(သ) ဤသို့ စားဝတ်နေရေး ကျန်းမာရေးတို့အတွက်ပါ ဆရာတော်က တာဝန်ယူသည့်ပြင် အရာရာတွင် လူရာဝင်အောင် သင်ပြ ချီးမြှောက်ပေးတော်မူသောဌာနဆိုသည်မှာ "ရှာမှရှား" ဖြစ်ပါလိမ့်မည်၊ ထို့ကြောင့်လည်း တပည့်အပေါင်း၏ "ဦးခေါင်းဝပ်တွား လေးစားအပ်သော ဂုဏ်ဂုဏ်နှင့်ပြည့်စုံတော်မူခြင်း" ဖြစ်ပေသည်။

(ဟ) ဤသို့သော ဆရာတော်က တပည့်များအား အမြဲတမ်းဆုံးမတတ်သည်မှာ "အလုပ်ဝတ္တရား ဆောင်ရွက်နေချိန်မှတစ်ပါး ကျောင်းတိုက်အတွင်းမှာပင် သင်္ကန်းကို သပ်သပ်ရပ်ရပ် ရန်းပါ၊ ကိစ္စရှိ၍ မြို့တွင်း ရွာတွင်း သွားတဲ့အခါမှာလည်း ဣန္ဒြေရရ ရုံ၍သွားပါ၊ ရထားသဘောစသည်တို့အပေါ်မှာလည်း သိက္ခာရှိရှိ နေကြပါ၊ စိတ်ထားကို ကောင်းကောင်းထားကြပါ၊ ဖြူစင်ပါစေ၊ ဖြောင့်မတ်ပါစေ၊ ရိုးသားပါစေ၊ ဣဿာ မစ္ဆရိယ မာန်မာန နည်းပါးပါစေ၊ လာဘသက္ကာရသိလောကကို မမက်မောကြနှင့်"ဟု ခဏ ခဏ အမိန့်ရှိသည်။

(ဠ) ထို့ပြင် "နေမကောင်း ထိုင်မသာ မသွားမလာနိုင်သောအခါ၌သာ မြင်းလှည်း နွားလှည်းကို စီးပါ၊ နေကောင်းသောအခါမျိုး၌ မစီးပါနှင့်" ဟုလည်း သတိပေးတတ်သည်။

(အ) ပွဲကြည့်မှု ပိုက်ဆံကိုင်မှုများကား အကြီးလေးဆုံး အပြစ်ဖြစ်သည်၊ တွေ့လျှင် ချက်ချင်း ကျောင်းတိုက်မှ ထွက်ရသည်၊ ပိုက်ဆံကိုင်မှုများ လွတ်ကင်းအောင်ပင် ဖော်ပြခဲ့ပြီးတာဝန်တို့ကို ဆရာတော်က ယူနေခြင်း ဖြစ်သည်၊ ထို့ကြောင့် တစ်ခါတလေ စာသင်သားများ၏ သေတ္တာတွေကို ကျောင်းတိုက်အလယ်ခေါင်သို့ ယူလာ စုပုံစေ၍ တစ်ခုချင်း ဖွင့်လှစ်ပြီး ရှာဖွေစေသည်၊ ပိုက်ဆံတွေ့လျှင်ကား မသက်သာတော့။

## ၃။ စာသင်နည်းနှင့်စာမေးပွဲ

(က) ဂန္ဓာရုံတိုက်သံဃာတော်များကို အဝတ်အစား အသွားအလာ အနေအထိုင်တို့၌ ကျက်သရေရှိအောင် ပြုပြင်သည် မဟုတ်သေးပါ၊ စာသင်နည်းကိုလည်း (စာမေးပွဲအောင်မှုကို ပဓာန မထားဘဲ) ကျမ်းရင်းစာသား နိုင်နင်းမှုကိုသာ ပဓာနပြု၍ သင်ယူစေသည်။

(ခ) သို့ရာတွင် စာမေးပွဲမအောင်လျှင် (ယခုခေတ်နှင့် နောင်ခေတ်တွင်) အလုပ်တွင်ကျယ်စွာ လုပ်နိုင်မည် မထင်သောကြောင့် စာမေးပွဲကိုလည်း အချိန်ရှိသူတိုင်း လက်လှမ်းမီရာ တစ်နိုင်ငံလုံး အသိအမှတ်ပြုသော စာမေးပွဲကို ဝင်ခွင့် ပြုတော်မူသည်၊ သို့သော် ဝင်ချင်တိုင်း ဝင်ခွင့် မပြု၊ ကျမ်းရင်းစာသားများ နိုင်နင်းမှသာ ဝင်ခွင့်ပြုတော်မူသည်။

(ဂ) ဤသို့လျှင် သက်ရှိသက်မဲ့များကို ပြုပြင်ပြီးနောက် "ဤသာသနာတော်ကို နိုင်ငံတော်၏ အများကိုးကွယ်ရာ သာသနာအဖြစ်မှ မရွေ့လျောစေလိုလျှင် (မိမိကဲ့သို့ပင်) တစ်နိုင်ငံလုံး ကိုယ်စီကိုယ်ငံ ပြုပြင်ကြရမည်"ဟု ဆရာတော်က အမိန့်ရှိတတ်သည်။

## ပန်းသတင်း လေညင်းဆောင်သလို
### လူသတင်း လူချင်းဆောင်

"စံပယ်, ဇလပ်, ခတ္တာ, ကြက်ရုံး, ငှက်ကုံး, မြလေး စသော ပန်းတို့၏ ရနံ့သည် လေအောက်တစ်ခွင် ရပ်ဝန်းအတွင်း၌သာ သင်းပျံ့နိုင်ကုန်၏၊ သီလ သမာဓိ ပညာ ဂုဏ်ရနံ့တို့၏ ထုံပျံ့မှုကား ဆယ်ဖြာပတ်နှောက် ထက်အောက်လေညာ ပတ်ချာဝန်းကျင် မိုးခွင်အနှံ့ သင်းပျံ့နိုင်ကုန်၏" ဤစကားသည်မှန်၏၊ ဆရာတော် အရှင်ဇနကာဘိဝံသ၏ မူလရည်ရွယ်ချက်မှာ တိတ်ဆိတ် ချောင်ကျ၍ ချမ်းမြေ့သော အရပ်တွင် ပရိသတ် အနည်းငယ်မျှဖြင့် အေးအေးဆေးဆေး နေထိုင်ကာ စာပေကျမ်းစာ ရေးသားနေမည်ဟု မှန်းခဲ့၏၊ ထို့ကြောင့် သာမန်မြို့ဟောင်းကလေး တစ်မြို့သာ ဖြစ်သော အမရပူရသို့ ပြောင်းရွှေ့ခဲ့သည်။

ဤသို့ ဇာတ်မြှုပ်၍ ခပ်ကုပ်ကုပ် ခပ်အေးအေး နေလိုပါသော်လည်း တကယ် အလုပ်လုပ်သူအဖို့ မြှုပ်၍ မရပါ၊ မြှုပ်၍လည်း မနေပါ၊ အလုပ်ကပင် မြှင့်တင်၍ ဖော်၍ ဖော်၍ ပေးနေတတ်ပါသည်၊ ဤသဘောပင်ဖြစ်၏၊ ဒုတိယကမ္ဘာစစ်ကြီး အေးငြိမ်းပြီးနောက် ရောက်လာသော သံဃာအနည်းငယ်မျှဖြင့် တစ်စတစ်စ မှန်မှန် အလုပ်လုပ်၍ လာခဲ့သည်၊ ရိုးရိုးစာပေပို့ချပေးမှုအပြင် အများအတွက် ကျမ်းစာကိုလည်း ရေးသား၏၊ ကျောင်းတိုက်နှင့် သံဃာကို ကြည်ညိုစရာဖြစ်အောင် ပြုပြင်၏၊ ရုပ်ဝတ္ထုရော နာမ်ဝတ္ထုပါ ပြုပြင်သည်၊ အထူးအားဖြင့် ဝိနည်းလေးစားအောင်နှင့် စိတ်ကောင်း နှလုံးကောင်းရှိအောင် ပြုပြင်ပေး၏၊ ဆရာတော့်မူမှာ ဤအချက်သည် အရေးကြီးဆုံး ဖြစ်သည်။

ဤနည်းအားဖြင့် ၁၀ နှစ်ခန့်ကြာသောအခါ ဆရာတော် အရှင်ဇနကာဘိဝံသ၏ကျောင်းတိုက် ဂုဏ်သတင်းသည် အတော်ပင် ထုံသင်းနေချေပြီ၊ ပန်းသတင်း လေညင်းဆောင်, လူသတင်း လူချင်းဆောင်ကြကာ ဝန်းကျင်အနှံ့ အတော်ပင် ပြန့်သွားလေ၏၊ ပျံ့အောင် နှံ့အောင် တမင်လုပ်သည်ကား မဟုတ်ချေ၊ ဤသို့ ပြုလုပ်ရိုးလည်း ဆရာတော်မှာ ဝါသနာမရှိချေ၊ အလုပ်ကပင် ပြန့်အောင် ဖြန့်ပေးသလို ဖြစ်၏၊ ဤသို့လျှင် ဂုဏ်သတင်းသည် မြန်မာပြည်အစွန်မှ နယ်ကျွံ၍ ထွက်သွားကာ ကမ္ဘာ့အရှေ့ဖျား အနောက်ဖျားသို့ တိုင်လေသည်။

## ဦးညွှတ်လျှိုး၍ ရှိခိုးကြသတဲ့

တစ်နေ့တွင် အမေရိကန် ယေးလ်တက္ကသိုလ်မှ "ဒေါက်တာဂတ်"ဆိုသော ပုဂ္ဂိုလ်တစ်ယောက် အမရပူရ ဂန္ဓာရုံသို့ ရောက်လာ၏၊ သူသည်လည်း ပန်းသတင်း လေညင်းဆောင်သလို သိရ၍ ရောက်လာခြင်း ဖြစ်၏။

ရောက်လာသောအခါ ကြားရသည်ထက်ပင် ပို၍ ကျေနပ်စရာများ တွေ့နေရပြန်သည်၊ တိတ်ဆိတ်၏, ငြိမ်းချမ်း၏, သာယာ၏, စိတ်ကြည်နူးဖွယ်ကောင်း၏၊ အမှန်ဆိုရသော် ထိုစဉ်က ယခုအချိန်မျှလောက်ပင် ပြည့်စုံမှု မရှိသေးချေ။



"ဒီသာသနာတော်ကြီးကို ပြတိုက်မှာ
ထားရမည့်
ရှေးဟောင်းပစ္စည်းလို မဖြစ်ဖို့"



မဟာဂန္ဓာရုံတွင်းက ဆေးကျောင်းကလေး

ဒေါက်တာဂတ်သည် ဆရာတော့်ထံ အရှေ့တိုင်းနှင့်ပတ်သက်သော ယဉ်ကျေးမှုများ အထူးအားဖြင့် ဗုဒ္ဓဘာသာယဉ်ကျေးမှုများကို သိလိုသမျှ မေးမြန်း၏၊ လျှောက်ထား၏၊ ဆရာတော်ကလည်း စိတ်ရှည်လက်ရှည်ထား၍ ဖြေကြားပေးတော်မူ၏။

ဆရာတော်နှင့် ဆက်ဆံရသည်မှာ ပြေလည်၏၊ စိတ်ချမ်းသာ၏၊ သိလိုသမျှ မေးရ လျှောက်ထားရသည်မှာလည်း အားရကျေနပ်လှသည်၊ ထိုပုဂ္ဂိုလ်သည် အရှေ့တိုင်းဘာသာကို လေ့လာနေသော ဒေါက်တာဘွဲ့ရတစ်ယောက်လည်း ဖြစ်လေသည်။

ဆရာတော်ကို ပုဂ္ဂိုလ်အရလည်း ကြည်ညိုလှ၏၊ သံဃာများကိုလည်း ဖူးမဝ အားမရအောင် ဖြစ်နေသည်၊ ထိုအခါ ဆရာတော်ရော သံဃာတော်များပါ ကျောင်းတိုက်၏ ချမ်းမြေ့သာယာပုံကိုပါ ရုပ်ရှင်ရိုက်ကူး၍ သွား၏၊ သူရောက်သည့် နေရာတိုင်း မြောက်ပိုင်းဗုဒ္ဓဘာသာဝင်တွေကို ပြသောအခါ နဂိုက မတ်မတ်ရပ်ပြီး ရုပ်ရှင် ကြည့်နေသော ပရိသတ်ကြီးသည် ငြိမ်းချမ်း၍ စည်းကမ်းသေဝပ်သော သံဃာတွေကိုလည်း မြင်ရော အားလုံးပင် ထိုင်၍ ရှိခိုးကုန်ကြပါသတတ်။

ရှင်တော်ဘုရား၏ မိန့်ကြားလမ်းညွှန်အပ်သော ဝိနည်းတော်စည်းကမ်းသည် အဆင့်အတန်းမြင့်ပေစွ၊ (အပ္ပသန္နာနံ ပသာဒါယ, ပသန္နာနံ ဘိယျောဘာဝါယ) မကြည်ညိုသေးသူတွေကို ကြည်ညိုလာစေနိုင်၏၊ ကြည်ညိုပြီးသူတွေကို သဒ္ဓါဖြိုးလျက် တိုး၍ တိုး၍ ကြည်ညိုစေနိုင်သည်။

အို...ရှင်တော်မြတ်ဘုရား, ရှင်တော်ဘုရား၏ ဟောကြား မိန့်မှတ် ပညတ်အပ်သော ဝိနည်းဒေသနာတော်မြတ်တို့သည် ယနေ့တိုင်အောင်ပင် ခေတ်နှင့် ဘောင်ဝင်လျက်, အဆင့်အတန်း မြင့်လျက်, နှစ်သက်ဖွယ်ဖြစ်လျက် ရှိပါသေးသည် အရှင်ဘုရား။

## ပြတိုက်၌ ထားရသော ရှေးဟောင်းပစ္စည်း မဖြစ်ဖို့

### ယထာဝါဒီ တထာကာရီ

မြန်မာပြည် လွတ်လပ်ရေး ရပြီးကတည်းက "သာသနာပြုပြင်ရေး, သာသနာပြုပြင်ရေး"ဟူ၍ အကျယ်လောင်ဆုံးနှင့် အများဆုံး အော်ဟစ်နေသူမှာ ဆရာတော် အရှင်ဇနကာဘိဝံသပင် ဖြစ်၏။

ဆရာတော်သည် သာသနာတွင်း၌ ကြောင့်ကြမဲ့နေတတ်သူ မဟုတ်ပေ၊ တာဝန်ရှိစွာဖြင့် အလုပ်လုပ်လျက် လှုပ်ရှားလျက် မျက်စိနှင့်နားကို အစွမ်းကုန် ဖွင့်ထားလျက် နေခဲ့သူ ဖြစ်ပါ၏၊ ထို့ကြောင့်ပင် မြန်မာပြည်၌ ပျော်ပိုက်ရပ်တည်လျက်ရှိသော သာသနာတော်၏ အခြေအနေကို သိမြင်နိုင်ခြင်း ဖြစ်ပေသည်။

မြန်မာပြည်သည် တိုင်းတစ်ပါး၏ လက်တွင်းသို့ သက်ဆင်းကျရောက်ခြင်း ခံရသည်မှ စ၍ ပြည်တွင်း၌ ရပ်တည်နေခဲ့သော သာသနာတော်သည်လည်း ဆက်နွှယ် ယိမ်းယိုင်ခဲ့ရလေသည်၊ တစ်ဖန် ဒုတိယကမ္ဘာစစ်ဘေးကြီးနှင့် မလွဲမရှောင်သာ ကြုံရပြန်သောအခါ ပို၍ပင် ယိုယွင်းခဲ့ရပြန်တော့၏။

ဤအချက်တို့ကို ကွက်ကွက်ထင်ထင် သိမြင်ထားသောကြောင့် လွတ်လပ်ရေးရ၍ ဌာနပေါင်းစုံမှ အပျက်အစီးတို့ကို ပြုပြင်ကြလျှင် သာသနာရေးဘက်တွင်လည်း ပြုပြင်နိုင်ဖို့အတွက် "အနာဂတ်သာသနာရေး" ကျမ်းစာကို အချိန်မီ ရေးသား၍ ညွှန်ကြားဟစ်အော်ခဲ့၏။

ဆရာတော်သည် သူတစ်ပါးတို့အား ညွှန်ကြားဟစ်အော်ရုံသာ မဟုတ်, မိမိ ကိုယ်တိုင်ကလည်း အလုပ်လုပ်လျက် ဆောင်ရွက်လျက်ရှိသည်။ ပါးစပ်က ပြောသလို လက်က အလုပ်လုပ်၏၊ လက်က အလုပ်လုပ်သလို ပါးစပ်ကလည်း သူတစ်ပါးတို့အား ညွှန်ကြား ဟစ်အော် သတိပေး နှိုးဆော်နေ၏၊ ဆရာတော်မှာ လက်မအား ပါးစပ်မအား ဖြစ်နေသည်၊–ပြောသလို လုပ်၍ လုပ်သလို ပြောသော "ယထာဝါဒီ တထာကာရီ"ဆရာတော်ပါပေ။

## သာသနာ့အမြစ်တွေ ပြတ်လာကုန်ပြီ

ဆရာတော် အရှင်ဇနကာဘိဝံသက ဘာ့ကြောင့် များ သာသနာပြုပြင်ရေးကို အရေးတကြီးအော်ဟစ် နေရသနည်း? မေးဖွယ်ရှိပါ၏၊ တရွေ့ရွေ့နှင့် ယိုယွင်းမှန်းမသိ ယိုယွင်းလာသော သာသနာတော် ကြီးကို မြင်နေရသောကြောင့် ဖြစ်ပေသည်၊ မှန်၏၊ ယခုအခါ သာသနာတော်ကြီးသည် မိမိတို့ ငယ်စဉ် က အခြေအနေနှင့်ပင် မတူတော့ချေ၊ သာသနာ့ အမြစ်တို့သည် ပြတ်မှန်းမသိ ပြတ်လိုက်လာနေချေ ပြီ၊ ဤဘေးရန် ကာကွယ်ဖို့ နည်းလမ်းတွေကို တခြား သူတွေက လာ၍ ကူညီစဉ်းစားပေးမည် မဟုတ်၊ မိမိတို့ သာသနာ့ဝန်ထမ်းများပင် တိုင်ပင်ညှိနှိုင်း၍ နည်းလမ်းရှာကြရပေမည်၊ ထိုသို့ ဖြစ်ရသည်မှာ... မိမိတို့ တိုင်းပြည်သည် သူတစ်ပါး၏ လက်အောက်ခံ ဖြစ်ခဲ့ရခြင်း, ဒုတိယ ကမ္ဘာစစ်ကြီးနှင့် မလွဲနိုင် မရှောင်နိုင် ကြုံတွေ့ရခြင်းတို့ အကြောင်းခံလျက် ရှိ၏၊ ယခု ကိုယ့်တိုင်းပြည် ကိုယ့်လူမျိုးနှင့် လွတ် လွတ်လပ်လပ် ရှိလာပြီ၊ ပြုပြင်နိုင်ဖို့ အခွင့်အလမ်း တွေ သာလာပြီ၊ ဤသို့ အခွင့်သာခိုက်မှ မပြုပြင် လိုက်ကြလျှင် နောင်ခေတ် အရှင်တို့၏ ပြစ်တင် ရှုတ်ချမှုကို ခံရခြင်း, ပစ္စက္ခသာသနာ့တာဝန်ကို ထမ်း ဆောင်နေကြသော မိမိတို့၏ တာဝန်မကျေခြင်းသာ ဖြစ်ကြရပေတော့မည်၊ ဤသည်တို့ကြောင့် ဆရာ တော် အရှင်ဇနကာဘိဝံသက အချိန်ရှိခိုက်တွင် သတိပေးနှိုးဆော်အော်ဟစ်နေခြင်း ဖြစ်လေသည်။

## အနာဂတ်သာသနာ သံဃာကိုအားကိုးခဲ့

သဗ္ဗညုဉာဏ်ပိုင်သခင် ဘုရားရှင် ကိုယ်တော် မြတ်ကြီးက လေးသင်္ချေနှင့်ကမ္ဘာတစ်သိန်း ပါရမီ တွေ ဖြည့်မှ ဘုရားဖြစ်တော်မူလာရသော်လည်း နေရမည့်ကာလမှာ ဘုရားအဖြစ်ဖြင့် ၄၅ နှစ်မျှသာ ဟု မြင်တော်မူပြီးဖြစ်သည်၊ ထို့ကြောင့်ပင် တိုတောင်း သော အချိန်ကာလအတွင်း၌ နေ့အား ရက်အား အနားမယူဘဲ အချိန်ပြည့် အလုပ်လုပ်တော်မူကာ သတ္တဝါ ဝေနေယျတို့ကို ချွေချွတ်တော်မူသွားခဲ့၏၊ မိမိ၏ မျက်နှာလွှဲရာ နောက်နောက်သော အနာဂတ် ကာလ၌ ဒါယကာ ဒါယိကာမတို့အတွက်ကိုမူကား အဆက်ဆက်ဖြစ်သော တပည့်သာဝက သံဃာများ ကို အားကိုးတော်မူသည်၊ "ငါဘုရား၏ တရား ဓမ္မတို့ကို တပည့်သား သံဃာ အဆက်ဆက်တို့က အဆင့်ဆင့် သင်ယူ ဟောကြား၍ နောင်လာနောက် သားတို့အား အကျိုးများရစ်ပေလိမ့်မည်" ဤသို့ အားကိုးတော်မူခဲ့၏၊ ယုံစားတော်မူခဲ့၏။

ထို့ကြောင့်ပင် * တစ်ချိန်သောအခါက ကိုယ်တိုင် ရက်လုပ်၍ သားဘုရားအား ကိုယ်ပိုင်ပုဂ္ဂလိက အဖြစ် လှူဒါန်းလာသော မိထွေးတော်ဂေါတမီ၏ သင်္ကန်းကို "သံဃာအား လှူပါ"ဟု ဘုရားကိုယ် တော်မြတ်က ဦးတည်မှုကို ပြောင်းလွှဲပေးခဲ့လေ သည်၊ နောင်လာနောက်သား ဒါယကာ ဒါယိကာမ များသည် သံဃာများအပေါ် အာရုံစိုက်စေချင်၏၊ "အဆက်ဆက် အကျိုးများမည့် သာဝကများ"ဟု တန်ဖိုးထားစေချင်၏၊ ထို့ကြောင့် မိန့်တော်မူခြင်း ဖြစ်လေသည်။

## အေးအေးဆေးဆေး မနေချင်နှင့်ဦး

တစ်ဖန်တုံလည်း ** တစ်နေ့သောအခါတွင် တောလက်ကျေးရွာတို့မှ ရဟန်းဖြစ်ပြီးခါစ ရဟန်း ငယ် (၅၀၀) ခန့်ကို အရှင် သာရိပုတ္တရာ အရှင် မောဂ္ဂလ္လာန်တို့ ဦးဆောင်၍ မြတ်စွာဘုရားထံတော် ပါးသို့ ဘုရားဖူးရန် ရောက်လာကြကုန်၏၊ ကိုယ် တော်ကလေးများမှာ ရဟန်းဖြစ်ခါစ အသစ်ကလေး များသာ ဖြစ်ကြ၍ ဆုံးမသင်ကြားမှု မရကြသေး သဖြင့် ဣန္ဒြေမရှိကြသေး။

---

* ဥပရိပဏ်–ဋ္ဌ၊ နှာ–၂၂၁၊ ** မဇ္ဈိမပဏ္ဏာသပါဠိတော်၊ စာတုမသုတ်–၁၉၉၊

ဘုရားကျောင်းတိုက်ထဲတွင် ဆူညံ ဆူညံနှင့် ကျယ်လောင်စွာ စကားပြောနေကြသည်၊ ထိုအခါ မြတ်စွာဘုရားက...

"အာနန္ဒာ...မြစ်ဆိပ်မှာ ငါးစိမ်းသည်တွေ ငါးလု နေကြသလို ဆူညံ ဆူညံ အသံတွေဟာ ဘယ်သူ တွေလဲ"ဟု မေးတော်မူ၏၊ "မှန်ပါ, အရှင်သာရိ ပုတ္တရာ အရှင်မောဂ္ဂလ္လာန်တို့ရဲ့ နောက်လိုက် ရဟန်း ငယ်ကလေးများပါဘုရား"

ထိုအခါ မြတ်စွာဘုရားက အားလုံးကို တစ်ခါ တည်း နှင်ထုတ်လေတော့၏၊ သို့ဖြစ်၍ အဂ္ဂသာဝက ကြီး နှစ်ပါးသည် ရဟန်းငယ်များနှင့်အတူ ထွက်ခွာ သွားတော်မူကြရသည်။

နောက်မှ ဒါယကကာများက မြတ်စွာဘုရားအား တောင်းပန်သဖြင့် ပြန်၍လာခွင့် ရကြသည်၊ ထိုအခါ မြတ်စွာဘုရားက...

"သာရိပုတ္တရာ...ငါဘုရားက ယခုလို နှင်ထုတ် သောအခါ သင့်စိတ်မှာ ဘယ်လိုနေသလဲ"။

"မှန်ပါ အရှင်ဘုရား, ယခုလို နှင်ထုတ်ခံရသော အခါ... မြတ်စွာဘုရားကိုယ်တော်မြတ်ဟာ ဖလ သမာပတ်ဖြင့် အေးအေးချမ်းချမ်း နေတော်မူလိုပြီ၊ ငါတို့လည်း မြတ်စွာဘုရားကို အတုယူ၍ ဖလ သမာပတ်ဖြင့် အေးအေးဆေးဆေးနေမှ တော်တော့ မယ်လို့ စိတ်ထဲမှာ ဖြစ်ပါသည်ဘုရား"။

ဘုရားရှင်ကိုယ်တော်မြတ်က ဘာမျှ အထူး မိန့် မြွက်ခြင်းမရှိဘဲ အရှင်မောဂ္ဂလ္လာန်ဘက်ကို လှည့်၍ ယခင်နည်းအတိုင်း မေးတော်မူပြန်သည်၊ ထိုအခါ အရှင်မောဂ္ဂလ္လာန်က...

"မှန်ပါ အရှင်ဘုရား, တပည့်တော်စိတ်ထဲမှာ တော့ တစ်မျိုးဖြစ်ပါသည်၊ ယခုအခါ ဘုရားကိုယ် တော်မြတ်ဟာ ဖလသမာပတ်ဖြင့် အေးအေး ချမ်း ချမ်း နေတော်မူလိုပြီး ရဟန်းသံဃာများကို ဆုံးမ ကမ်မြစ်ဖို့ တာဝန်ယူလိုတော့ဟန် မတူပြီ၊ သို့ဖြစ်လျှင် မိမိတို့ကပင် ရဟန်းသံဃာများအား သင်ကြားပြသဖို့ ကြောင့်ကြောင့်ကြကြ ဦးဆောင်ဖို့ တာဝန်ရှိလာပြီ လို့ ဖြစ်မိပါသည်ဘုရား"ဟု လျှောက်ထားလေသည်။

ထိုအခါ မြတ်စွာဘုရားက "သာဓု မောဂ္ဂလ္လာန်, သာဓု သာဓု"ဟု ကောင်းချီးပေးတော်မူပြီးလျှင် "သာရိပုတ္တရာ...အေးအေးဆေးဆေး ကြောင့်ကြမဲ့ နေဖို့ စိတ်မကူးနှင့်ဦး, ထိုသို့ နေဖို့ရန် ဆိုင်းငံ့ဦး" ဟူ၍ မိန့်တော်မူလေ၏၊ အရှင်သာရိပုတ္တရာ၏ ရည်ရွယ်ချက်အပေါ် သာဓု မခေါ်ပေ။

ဤအချက်ကို ထောက်ဆ၍ပင် အနာဂတ် ကာလ၌ အနာဂတ် ဒါယကာ ဒါယိကာမများ အတွက် အနာဂတ်သံဃာတော်များ အဆက်ဆက် မပျက် တည်ရစ်ဖို့ လိုလားတော်မူကြောင်း သိနိုင် ပါသည်။

## ချမ်းသာပေးနိုင်မှ တာရှည်ခံမည်

ဤသို့ အဖဘုရားရှင်က မြော်မြော်မြင်မြင် အစီ အစဉ်ချထားခြင်း, သံဃာများအပေါ် အားကိုးတော် မူခဲ့ခြင်း ရှိပါလျက် မိမိတို့က မဆောင်ရွက်ကြလျှင် (ထိန်းသိမ်းပြုပြင် စောင့်ရှောက်ရမည့် သာသနာ့ တာဝန်ကို မထမ်းဆောင်ဘဲ ရေသာခိုနေကြပါလျှင်) မိမိတို့သာ တာဝန်မကျေ ဖြစ်ရချေတော့မည်၊ ဝန်ထမ်းဟု အမည်ခံထားပါလျက် ဝန်မထမ်းဘဲ ဝန်စီးများ ဖြစ်နေကြပေမည်၊ ကိုယ်စီကိုယ်င တာဝန် ရှိကြ၏၊ တက်တက်ကြွကြွ အလုပ်လုပ်ကြဖို့ အချိန် ဖြစ်၏၊ ဘုရားသာသနာမှာ တာဝန်မဲ့လျက် အေး အေးစက်စက် နေဖို့ အချိန်အခါ မရှိချေ၊ ဘုရား ကိုယ်တော်တိုင်ပင် စံပြအဖြစ် မနားမနေ အလုပ် လုပ်သွားတော်မူခဲ့ပေသည်။

ဤသို့ အလုပ်လုပ်ဖို့ အချိန်အခါ အခွင့်သာပါ လျက် အလုပ် မလုပ်ဘဲနေခဲ့လျှင် မကြာမြင့်သော အချိန်အခါ၌ မည်သို့ ဖြစ်လာနိုင်မည်ကိုလည်း "ဘာသာသွေး"စာအုပ်၏ နိဒါန်းတွင် ဤကဲ့သို့ အကြောင်းကို ဖော်ပြထား၏။

"ဗုဒ္ဓမြတ်စွာသည် သုမေဓာရသေ့ဘဝ၌ ဒီပင်္ကရာ မြတ်စွာဘုရားကို ဖူးတွေ့ရစဉ် နိဗ္ဗာန်ကို မြင်နိုင် လောက်အောင် ဉာဏ်ပါရမီ ရင့်သန်ပြီး ဖြစ်နေလေ ပြီ၊ သို့သော် သတ္တဝါအများကို သနားတော်မူသော

မဟာကရုဏာ၏ နှိုးဆော်တိုက်တွန်းမှုကြောင့် လက်လှမ်းမီလောက်အောင် နီးကပ်နေသော နိဗ္ဗာန်ကို ယူတော်မမူခဲ့ပါ။ မယူဘဲ ခွာဖဲခဲ့ပြီးမှ ကိုယ်အင်္ဂါကို စွန့်လှူခြင်းစသော သာမန်လူတို့ ကြံရုံမျှပင် မကြံရဲသော ဒါနပါရမီ စသည်တို့ကို ဖြည့်ကျင့်၍ ပြည့်စုံလုံလောက်မှ သဗ္ဗညုတဉာဏ်တော်ကို ရသော ဗုဒ္ဓအစစ် ဖြစ်တော်မူခဲ့ပါသည်။

ဤသို့ ဆင်းရဲသူများကို သနားချစ်၍ ဘုရားဖြစ်အောင် အဆင်းရဲခံတော်မူခဲ့သော ဗုဒ္ဓမြတ်စွာသည် ကိုးကွယ်သူတို့၏ ဆင်းရဲဖို့ရန် ဖြစ်ပေါ်လာသည် မဟုတ်ပါ။ထိုဘုရားရှင်၏သာသနာတော်သည်လည်း ဒါယကာ ဒါယိကာမတို့အတွက် ဆင်းရဲဖို့ရန် မဟုတ်ပါ။ စင်စစ်အားဖြင့် ကိုးကွယ်သူ လိုက်နာသူတို့၏ ဤဘဝ နောက်ဘဝတို့၌ ချမ်းသာမှု ရဖို့သာ ဖြစ်ပါသည်။

ထို့ကြောင့် ဤသာသနာတော်သည် လူအများ၏ ချမ်းသာမှုကို ဆောင်နိုင်မှသာ ဤနိုင်ငံ၌ တာရှည်တည်နိုင်မည်၊ လူအများ၏ ချမ်းသာကို မပေးနိုင်လျှင် အသုံးချလို့မရ၍ ရှေးဟောင်းပစ္စည်းတစ်ခုအနေဖြင့် ပြတိုက်၌ ထားရသောပစ္စည်းကဲ့သို့ မိမိတို့ဘုန်းကြီးများလည်း အလွန်မကြာသော နောင်အခါဝယ် ရှေးဟောင်းပစ္စည်းများ ဖြစ်ကြရပါလိမ့်မည်။

## ကျယ်လောင်စွာ ဟစ်အော်ခဲ့

ဤသို့သော ဘေးရန်များ နီးကပ်လာသည်ထက် နီးကပ်လာသည်ကို မြင်၍ အရှင်ဇနကာဘိဝံသ ဆရာတော်က ကျယ်လောင်စွာ ဟစ်အော်ခဲ့၊ အကြိမ်များစွာ ဟစ်အော်နေခဲ့မိခြင်း ဖြစ်လေသည်။

တိုင်းပြည် လွတ်လပ်ရေးရဖို့ နီးကတည်းကပင် ကြိုတင် ပြင်ဆင်လျက် "အနာဂတ်သာသနာကျမ်းစာ"ကို ရေးသားပြီး လွတ်လပ်လျှင် လွတ်လပ်ချင်း သာသနာပြုပြင်ရေးအတွက် ဟစ်အော်ခဲ့သည်၊ ကိုယ်တိုင်လည်း လက်တွေ့ အလုပ်လုပ်လျက် ရှိ၏၊ ထို့နောက် အခွင့်ကြုံတိုင်း နီးစပ်ရာ ဒါယကာ ဒါယိကာမတို့အား အခြားသော ဒါန သီလ ဘာဝနာ တရားတို့ထက် သာသနာပြုပြင်ရေးတရားကိုသာ ဦးစားပေး၍ ဟောကြားခဲ့သည်။

မိမိ၏ ဆရာသခင် ကျေးဇူးရှင်များနှင့် တွေ့လျှင်လည်း ဤအကြောင်းအရာကိုပင် တင်ပြ လျှောက်ထားမိ၏၊ မိတ်ဆွေ ရဟန်းတော်များနှင့် တွေ့လျှင်လည်း ဤကိစ္စပင်။

ဆရာတော် အရှင်ဇနကာဘိဝံသသည် အစိုးရပိုင်းမှ လူကြီးများနှင့်လည်းကောင်း၊ အရာရှိ တော်တော် များများနှင့်လည်းကောင်း ဤအကြောင်းကို အကြိမ်ပေါင်းများစွာ ဆွေးနွေးဖူး၏။

တစ်ခါက ပရဟိတ သံဃာ့အစည်းအဝေးပွဲကြီးတွင်လည်း သူကိုယ်တိုင် ကျယ်ကျယ်ပြန့်ပြန့် လျှောက်ထားဖူး၏၊ ဆဋ္ဌသင်္ဂါယနာပွဲကြီးတုန်းကလည်း ညှိကြည့်သေးသည်၊ ဖြစ်ချင်သလို အခြေအနေ မပေးခဲ့၊ သို့သော်လည်း မိမိကိုယ်တိုင် တစ်နိုင်တစ်မ ပြုပြင်ရေးလုပ်ငန်းကား အစဉ်ထာဝရ ရှိနေခဲ့သည်သာ။

## လုပ်ငန်းဆက်ချင်၍ နိဗ္ဗာန်မယူချင်သေး

ယခုအခါ သာသနာပြုပြင်ရေးအတွက် ရောင်ခြည်သန်းလာသလို ဖြစ်၍ "ဘာသာသွေး"ဟူသော စာအုပ်ကို တက်တက်ကြွကြွဖြင့် ရေးရပြန်၏။

ဤစာအုပ်တွင် ရည်ရွယ်ချက်နှင့် လုပ်ငန်းစဉ်တို့ကို ပီပီပြင်ပြင် တင်ပြလျက် ရှင်ပျံဝမ်းသာစရာ အားတက်စရာ ဖော်ညွှန်းထား၏၊ သို့သော် လုပ်ငန်းစတော့မည့်ဆဲဆဲ အောင်မြင်မှုအိပ်မက်တို့ကို မက်ရင်း မက်ရင်း မိုးလင်းခဲ့ရပြန်သည်။

တစ်ချိန်တုန်းက (၁၃၂၆ ခုနှစ်)လည်း ရန်ကုန်မြို့အနီး မှော်ဘီအစည်းအဝေးကြီး ပေါ်လာစဉ်က မြန်မာပြည် သာသနာတစ်ရပ်လုံး လှုပ်လှုပ်ရွရွနှင့် ပြုပြင်ရေးတွေကို တမ်းတနေကြရကား ... ...

"အောင်မြင်ရမည်"ဟု တွက်ကိန်းချခဲ့ရ၏၊ သို့သော်လည်း သာသနာတော်၏ ကံကြမ္မာအရဟု ဆိုရမည်လော မပြောတတ်၊ အားလုံး ရည်ရွယ်ချက် တွေဟူသမျှ ရပ်တန်းက ရပ်ခဲ့ကြရပြန်သည်။

ဤကိစ္စအတွက် ဆရာတော် အရှင်ဇနကာဘိဝံသမှာ အိပ်မရ စားမရသလို ဖြစ်နေဟန်တူ၏၊ မိမိ တစ်နိုင်တစ်မ သာသနာပြုပြင်ရေးများ အောင်မြင်မှုအတွက် ကျေနပ်ရသော်လည်း တစ်သာသနာလုံး ပြုပြင်ပြောင်းလဲရေး အောင်မြင်မှု မရသေးသည့်အတွက် မကျေနပ်သေး, အားမရသေးချေ၊ ယခုဘဝအတွက် အလုပ်လုပ်ဖို့ အချိန်ကလည်း နည်းသွားချေပြီ၊ အချိန်က မလုံလောက်တော့။

ထို့ကြောင့် "ဤကဲ့သို့သော သက်နံ့ဝတ်ဘဝကို ရယူကာ ဤသာသနာတော်ကြီးကို ဆက်လက်ပြုပြင် ထိန်းသိမ်း စောင့်ရှောက်ချင်ပါသေးသည်"ဟု သူ၏ဆန္ဒကို ထုတ်ဖော်မိန့်ကြားဖူးလေသည်။

# မထေရ်ကြီးတွေဆို့လျှင် ခေါင်းပေါ်မှာ အမြဲတင်

## မေ့မရသည့် မြင်ကွင်းတစ်ခု



**မစိုးရိမ်ဆရာတော်ဘုရားကြီး**

၁၃၁၉ ခုနှစ်လောက်က ဖြစ်၏၊ မန္တလေးမြို့ မစိုးရိမ်ဆရာတော်ဘုရားကြီးသည် ကိစ္စတစ်ခုဖြင့် အမရပူရ (တောင်မြို့)သို့ ကြွလာရာ ခရီးကြုံခိုက်တွင် နောက်ပါ ဒါယကာ သုံးလေးဦးဖြင့် မဟာဂန္ဓာရုံကျောင်းတိုက်သို့ပါ ဝင်လာတော်မူသည်၊ ထိုအချိန်က ရွှေကျင်နိကာယ ဥပဥက္ကဋ္ဌ (ဒုတိယသာသနာပိုင်) မြောင်းမြဆရာတော်ဘုရားကြီးသည်လည်း မဟာဂန္ဓာရုံတိုက်မှာ ရှိနေခိုက် ဖြစ်၏။

ထို့ကြောင့် ဆရာတော် အရှင်ဇနကာဘိဝံသက "ဆရာတော်ကြီးများကို သံဃာများ ကန်တော့ကြရအောင် ခန်းမကျယ်တဲ့ ကျောင်းတစ်ခုမှာ နေရာပြင်ကြ"ဟူ၍ တပည့်ကြီးများအား အမိန့်ရှိလိုက်သည်။

ထို့ကြောင့် တပည့်ကြီးများက ဆရာတော်ကြီးသုံးပါးအတွက် ခန်းမအတွင်း ခေါင်းရင်းဘက်မှာ ကုလားထိုင်သုံးလုံး ပြင်ထား၏၊ ပြီးလျှင် သံဃာတော်များ အားလုံးကို တုံးခေါက်စု၍ စုံညီသောအခါ ဆရာတော်ကြီးများကို သွား၍ ပင့်ကြသည်။

အဘိဓဇမဟာရဋ္ဌဂုရု မစိုးရိမ်ဆရာတော်ဘုရားကြီး, ရွှေကျင်နိကာယ ဥပဥက္ကဋ္ဌ (ဒုတိယသာသနာပိုင်) မြောင်းမြဆရာတော်ဘုရားကြီးနှင့်ဆရာတော် အရှင်ဇနကာဘိဝံသတို့ ကြွလာတော်မူကြသည်၊ ခန်းမတွင်းသို့ ရောက်သောအခါ အလယ်ကုလားထိုင်တွင် မစိုးရိမ်ဆရာတော်ဘုရားကြီးက ထိုင်တော်မူ၏၊ ပြီးမှ "ထိုင်ကြလေ"ဟူ၍ မိန့်တော်မူရင်း ကျန်ကုလားထိုင်နှစ်လုံးကို ညွှန်ပြလျက် ကျန်ဆရာတော်နှစ်ပါးအား မိန့်ကြားတော်မူသည်။

ထိုအခါ မြောင်းမြ ဆရာတော်ဘုရားကြီးက "တပည့်တော်တို့ ဆရာတော်နှင့်အတူ ဘေးချင်းယှဉ်ပြီး မထိုင်ပါ ဘုရား"ဟု လျှောက်ထားကာ မစိုးရိမ်ဆရာတော်ဘုရားကြီး၏ ရှေ့၌ ကြမ်းပြင်ပေါ်တွင် ဒူးတုပ်၍ ထိုင်ချလိုက်၏၊ အလားတူပင် ဆရာတော် အရှင်ဇနကာဘိဝံသကလည်း ခပ်စောင်းစောင်း နေရာ၌ ကြမ်းပြင်ပေါ်တွင် ဒူးတုပ်၍ ထိုင်ချလိုက်လေသည်၊ မေ့မရအောင် ကြည်ညိုဖွယ် မြင်ကွင်းပေတကား။

## အသားပါလှ ဩဝါဒများ

ဆရာတော်ဘုရားကြီးများ တစ်ပါးအပေါ် တစ်ပါး ရှိသေလေးစားပုံကို မြင်ရသဖြင့် အားရကြည်ညိုစရာ ကောင်းလှပါတော့သည်၊ သံဃာငယ်များအား အတုယူစရာ နမူနာပေးသလိုလည်း ဖြစ်တော့၏၊ မစိုးရိမ်ဆရာတော်ဘုရားကြီးနှင့် မြောင်းမြဆရာတော်ဘုရားကြီးတို့ဆိုတာ သက်တော်ရွယ်တော်အားဖြင့် သိပ်ပြီး ကွာခြားလှသည် မဟုတ်ချေ၊ သို့တစေလည်း တစ်နေ့တစ်ရက် တစ်နံနက်မျှ အသက်သိက္ခာ ကြီးပစေ ရှိသေရသည်ဟု ပြတော်မူလိုက်ခြင်း ဖြစ်ပေ၏၊ ထို့ပြင် ဂိုဏ်းဂဏမရွေး ကျင့်ဝတ်၌ ရှိသေခြင်း ရှိသည်ကိုလည်း သံဃာတော်များအား အတုယူဖွယ် ပြလိုက်ခြင်းလည်း ဖြစ်ပေလိမ့်မည်။

ထို့နောက် သံဃာတော်အားလုံးက ဦးသုံးကြိမ်ချ၍ ကန်တော့ကြသည်၊ ဆရာတော် အရှင်ဇနကာဘိဝံသက "ဆရာတော်ကြီးဘုရား...ကြုံတုန်းကြုံခိုက်မှာ ဩဝါဒပေးတော်မူပါဘုရား"ဟု လျှောက်ထား၏၊ ထို့ကြောင့် မစိုးရိမ်ဆရာတော်ဘုရားကြီးက ဩဝါဒပေးတော်မူသည်။

"လူဆိုတာ အလုပ် လုပ်ရတယ်ကွဲ့၊ လူတိုင်း လူတိုင်း အလုပ် လုပ်ရတာချည်းပဲ၊ တို့ ဒီဘုံလောကကြီးက အလုပ် လုပ်ရတဲ့ဘုံကြီးပဲ၊ အလုပ် မလုပ်တဲ့သူဟာ အောက်ကျ နောက်ကျ ဖြစ်သွားမယ်၊ တို့ ဒီဘုံကြီးထဲ ရောက်လာတဲ့သူဟာ ရောက်လာလာချင်း အလုပ်တန်းပြီး လုပ်ကြရတာပဲ။

ဉပမာ-မွေးဖွားလာစ ကလေးသူငယ်ဆိုပါတော့၊ သူလည်း အလုပ် လုပ်ရတာပဲ၊ ဘယ်လိုလဲဆိုရင် မိခင်ဝမ်းက ထွက်လာတဲ့ မွေးဖွားစ ကလေးသူငယ်ဟာ သူ့ဝမ်းဝဖို့အတွက် မိခင်နို့ရည်ကို စို့ရတယ်၊ ဒါလည်း အလုပ် ပဲပေါ့၊ စို့ယူရတဲ့ အလုပ်ပေါ့၊ အူဝဲ အူဝဲ ငိုနေရုံနှင့် မပြီးသေးဘူး၊ စို့ယူရတဲ့ အလုပ်ကို လုပ်မှ သူ့ဝမ်း ဝ၍ အဆာပြေမယ်၊ ဒါကို သူ သိတော့ အလုပ် လုပ်ရတယ်။

မွေးကင်းစ ကလေးတောင် အလုပ် လုပ်ရတယ်ဆိုတော့ မင်းတို့လို ကြီးလာတဲ့သူတွေ, အသိဉာဏ်ရှိလာတဲ့သူတွေ ပိုပြီး အလုပ် လုပ်ကြရမှာပေါ့။

## တပ်လှန့်နှိုး၍ အားတက်ကြရ

ဆရာတော်ဘုရားကြီး၏ ဩဝါဒသည် ရှင်းလှ၏၊ အသားပါလှ၏၊ ထိမိလှ၏၊ မှန်လည်း မှန်ကန်၏၊ ဤဘုံလောကကြီးသည် *(ဥဋ္ဌာနဖလူပဇီဝီ စေဝ, ကမ္မဖလူပဇီဝီ စ) "လုံ့လဝီရိယအကျိုးကိုလည်း မှီ၍ အသက်မွေးရ, ရှေးကံ၏ အကျိုးကိုလည်း မှီ၍ အသက်မွေးရ၏" ဟူသော ဗုဒ္ဓရှင်တော်မြတ်၏ တရားတော်နှင့်လည်း ကိုက်ညီလှ၏၊ တိတ်ဆိတ်ငြိမ်သက်စွာ နာခံနေသော သံဃာ့ပရိသတ်သည် ကာယိန္ဒြေအနေအထားအားဖြင့်သာ ငြိမ်သက်နေကြသော်လည်း စိတ်ဓာတ်များ အနေအားဖြင့်ကား အလုပ်ခွင်များသို့ ရောက်နေကာ ကိုယ်စီကိုယ်ငလန်းဆန်းလျက် ကြည်နူးလျက် အားတက်လျက် "ကြိုးစားကြမယ်, အလုပ်လုပ်ကြမယ်"ဟု လှုပ်ရှားလျက် နေကြပါလိမ့်မည်၊ ဆရာတော်ဘုရားကြီးက တပ်လှန့်လိုက်သလို ဖြစ်တော့၏၊ ထို့ပြင် ဆက်လက်၍ ဩဝါဒများ မိန့်မြွက်တော်မူပြန်ပါသေးသည်။

"ဒီခေတ် စာသင်သံဃာများဟာ တို့ခေတ်ကထက် အများကြီးချမ်းသာကြပါတယ်၊ ဟိုတုန်းကများ မနက်လင်းလာ သက်န်းရုံ, သပိတ်ပိုက်, ဆွမ်းခံသွား, မန္တလေးမြို့ အနောက်ပြင်ကနေ အရှေ့ပြင်အထိများ

---

* အ-၁၊ စတုက္က-၇၅၂။

ရောက်ကြတယ်၊ ခရီးဆန့်လိုက်ရင် အဝေးကြီးပဲ၊ အသွားအပြန် နှစ်မိုင်ကျော်ကျော်လောက် နေမှာ ပေါ့၊ ဒီတော့မှလဲ တစ်ပါးစာ လုံလောက်အောင် ဆွမ်းရတယ်၊ ဟင်းဆိုတာကတော့ ရတယ်လို့ တယ် မရှိလှပါဘူး။

အဲ-မှန်မှန်ရတာ တစ်ခုရှိတယ်၊ အဲဒါကဘာလဲ ဆိုရင် မြို့ဝန်အိမ်က လောင်းတဲ့ ချဉ်ပေါင်ရွက် နှစ်စည်းပဲ၊ အဲဒါကတော့ ကိုယ်တော်တိုင်းရတယ်၊ ဘယ်အချိန်သွားသွား၊ နေမြင့်မှသွားသွား ရတယ်၊ အများကြီးလုပ်ထားတာကိုး၊ နေ့တိုင်း ဒီချဉ်ပေါင် ရွက်ချည်းလောင်းတာပဲ၊ အစိမ်းအတိုင်းလောင်းတာ၊ သူ့အိမ်က အခိုင်းအစေတွေနှင့် တစ်ထွာတစ်မိုက် ရှိတဲ့ ချဉ်ပေါင်ပင်တွေကို လေးငါးပင် တစ်စည်း၊ လေးငါးပင် တစ်စည်း နှီးလျှော်နှင့် စည်းထားတာ။

ကိုယ်တော်တစ်ပါးကို နှစ်စည်း နှစ်စည်းလောင်း တယ်၊ အိမ်ရှေ့စားပွဲကြီးပေါ် မှာ ချဉ်ပေါင်ရွက်ပုံကြီး နဲ့တာမဟုတ်ဘူး၊ ဒါ-မြို့တော်ဝန်မို့ လောင်းနိုင်တာ၊ အဲဒါ ကျောင်းရောက်တော့ တစ်စည်းကို ဆားနှင့် ဆွမ်းနှင့် ရောပြီး ကိုက်ကိုက်စားတာပဲ၊ ဆားကတော့ ကျောင်းမှာ အသင့်လုပ်ထားရတယ်လေ၊ တစ်စည်း ကို ချန်ထားတယ်၊ အဲလိုနှင့် စားပြီးရင် စာတက် သွားကြတာပဲ။

၁၀ နာရီခွဲလောက် စာတက်ရာက ပြန်ရောက်မှ ကျန်တဲ့ဆွမ်းနှင့် ကျန်တဲ့ချဉ်ပေါင်တစ်စည်းကို ရော ပြီး စားလိုက်ကြပြန်ရော၊ ဒါတစ်နေ့အတွက် ပြီးတာ ပဲ၊ ဟင်းတို့ ဘာတို့က ရခဲပါတယ်၊ တစ်ခါတလေမှ ဘုံလောင်းနှင့်တွေ့လို့ ရတတ်ပါရဲ့၊ အခုခေတ်များ ဗျာ၊ ပေါပေါ့၊ ဘုံလောင်းတွေလည်း ပေါပေါ့၊ ချဉ်ပေါင် ဟင်းတို့ ပဲပြုတ်တို့ နှမ်းဖတ်ချဉ်တို့ စားပါလေ့၊ တို့ ခေတ်တုန်းက ဒီလိုမပေါပါဘူး၊ ဒါတောင် ကြိုးစား ကြသေးတာ၊ ကြိုးစားကြလို့ ပိဋကတ်တတ်မြောက် ကြတဲ့ဆရာတော်တွေ အများကြီးထွက်တယ်၊ မင်းတို့ ခေတ်မှာ ပိုပြီးထွက်ဖို့ကောင်းတာ၊ ဒါကြောင့် အေးအေးစက်စက်မနေကြနှင့်၊ ဖျတ်ဖျတ်လတ်လတ် ရှိကြပါ၊ သွက်သွက်လက်လက် ရှိကြပါ၊ သာသနာ တော်ကြီးအတွက် ကြိုးစားကြ၊ ကြိုးစားကြ"။

## အောင်မြင်ဖို့ရာ ကြိုးစားရတာချည်းပဲ

အဘိဓဇမဟာရဋ္ဌဂုရု မစိုးရိမ်ဆရာတော်ဘုရား ကြီး မိန့်မြွက်တော်မူနေသည်ကို အနားမှ ရွှေကျင် နိကာယ ဥပဥက္ကဋ္ဌ မြောင်းမြဆရာတော်ဘုရားကြီး နှင့် ဆရာတော် အရှင်ဇနကာဘိဝံသတို့က သဘော ကျ၍ ပြုံးနေတော်မူကြသည်။

မစိုးရိမ်ဆရာတော်ဘုရားကြီး၏ ဩဝါဒအပြီး တွင် ဆရာတော် အရှင်ဇနကာဘိဝံသက သံဃာ တော်များဘက်ကို လှည့်၍ "ဒီဆရာတော်ဘုရား ကြီးက အစွမ်းသတ္တိ ရှိတယ်၊ လုံ့လဝီရိယလည်း ကြီးမားတော်မူတယ်၊ အလုပ်ကိုလည်း တန်ဖိုးထား တော်မူတတ်တယ်၊ သံဃာတော်များအပေါ် ဩဇာ လည်း ညောင်းတယ်၊ ဩဇာညောင်းတယ်ဆိုတာ အဂတိ မလိုက်လို့၊ အရာရာမှာ မျှမျှတတ ရှိလို့ပေါ့၊ ခပ်ရွယ်ရွယ်တုန်းကဆိုရင် ... တောင်ဝေ့းကြီး တစ်ချောင်းနှင့် မစိုးရိမ်ကျောင်းတိုက်ကြီးတစ်ခုလုံး ကို လှည့်ပတ်အုပ်ချုပ်တော်မူနေခဲ့တာ၊ ဒီလို လုံ့လ ဝီရိယ သတိ သမာဓိ ပညာများ ကြီးမားတော်မူလို့ လည်း အလုပ်တွေ အောင်မြင်တော်မူတာပဲ။

သာသနာတော်မှာ နေလို လလို ထင်ရှားရ အောင် ဖြစ်စေတဲ့ ဂုဏ်ပုဒ်တွေဆိုတာကတော့ ပြောလို့ မကုန်နိုင်ပါဘူး၊ အဲလို ဆရာတော်ကြီးပါ၊ ဒီလို အလုပ်တွေ အောင်မြင်ပြီး အထွတ်အထိပ်သို့ ရောက်ရတယ်ဆိုတာ အရင်းစစ်ရင် ဆရာတော် ဘုရားကြီး အမိန့်ရှိသလို ကြိုးစားခဲ့လို့ပါပဲ။

အထွတ်အထိပ် အမြင့်သို့ ရောက်တဲ့သူတိုင်းဟာ ကြိုးစားခဲ့ကြတာချည်းပဲ" စသည်ဖြင့် နိဂုံးချုပ် မိန့် မြွက်ကာ ကန်တော့ခန်းကို ရုပ်သိမ်းလိုက်ဖါလေ သည်။



ဒသမအကြိမ်မြောက် ရွှေကျင်ဂိုဏ်းလုံးကျွတ် အစည်းအဝေးကြီး မစမိ
စံကင်းဆရာတော်ဘုရားကြီး ရှေ့တော်မှောက်ဝယ်

# သွေးအေးအေးဖြင့် သည်းခံနိုင်စွမ်းရှိခြင်း

## သုံးနှစ်တစ်ကြိမ် စည်းဝေးပွဲ

ရွှေကျင်နိကာယ အစဉ်အလာအရ သုံးနှစ် တစ်ကြိမ် ဂိုဏ်းလုံးကျွတ် စည်းဝေးကြရ၏၊ ဒသမအကြိမ်မြောက် အစည်းအဝေးကို ၁၃၂၅ ခုနှစ် နတ်တော်လဆန်း ၃ ရက်နေ့တွင် မန္တလေးမြို့ အနောက်ပြင် မဟာဝိသုဒ္ဓါရုံတိုက်ကြီး၌ စည်းဝေးရန် ဆုံးဖြတ်တော်မူကြ၏၊ ထိုစဉ်က ရွှေကျင်သာသနာပိုင်ဆရာတော်ဘုရားကြီးမှာ အဘိဓဇမဟာရဋ္ဌဂုရု စံကင်းဆရာတော်ဘုရားကြီး ဖြစ်၏၊ သက်တော် ၉၃ နှစ်ရှိလေပြီ။

ထိုအစည်းအဝေးကြီး မတိုင်မီ ဂိုဏ်းလုံးဝန်ဆောင် ဆရာတော်များမှာ အကြိုအစည်းအဝေးပွဲများ စည်းဝေး၍ ညှိနှိုင်းကြရသေး၏၊ မည်သည့်အဆိုများ တင်သွင်းမည်၊ မည်သည့်အချက်များသတ်မှတ်မည်၊ မည်သူက မည်သည့်တာဝန်များယူရမည် စသည်ဖြင့် ညှိနှိုင်းကြရ၏။

ထိုကိစ္စများတွင် ရွှေကျင်နိကာယ ဥက္ကဋ္ဌ မဟာနာယက (ရွှေကျင်သာသနာပိုင်) အဘိဓဇမဟာရဋ္ဌဂုရု စံကင်းဆရာတော်ဘုရားကြီးက မြွက်ကြားရမည့်ဩဝါဒကထာကို စီစဉ်ရေးသားရန်ကိစ္စလည်း ပါဝင်၏၊ ထိုကိစ္စအတွက် "သူရေးပါ, ငါရေးပါ"နှင့် တစ်ပါးအပေါ် တစ်ပါး လွှဲချနေရာမှ နောက်ဆုံးတွင် "ဆရာတော် ဦးဇနက ရေးပါ"ဟု တာဝန်ပေးလာတော့၏။

## စာရေးရန်တာဝန်အပ်နှင်း

ဆရာတော် ဦးဇနကကလည်း "အရှင်ဘုရားတို့ရေးကြပါ, တပည့်တော် မရေးပါရစေနှင့်"ဟု ပယ်မြစ်သည်၊ သို့သော်လည်း အများကပင် "ဦးဇနကက စာရေးနေကျပဲ၊ အရှင်ဘုရားရေးမှ ပိုကောင်းမှာပေါ့၊ ရေးသာ ရေးပါ"ဟု ဝိုင်း၍ တိုက်တွန်းကြသဖြင့် လက်ခံလိုက်ရတော့၏။

လက်ခံပြီးသည့်တိုင်အောင်ပင်... ဆရာတော် အရှင်ဇနကာဘိဝံသက "တပည့်တော် ရေးရရင် တပည့်တော် စာကို ဟိုပြင်သည်ပြင် အပြင်မခံနိုင်ဘူး"ဟု ပြောသောအခါ ဆရာတော်တစ်ပါးက "သတ်ပုံသတ်ညွှန်းလောက်တော့ အပြင်ခံပါလေ" ဟု ဆို၏၊ ဆရာတော် အရှင်ဇနကာဘိဝံသက "သတ်ပုံ သတ်ညွှန်းကတော့ ပြင်ရပါတယ်,... အဓိပ္ပာယ်ကိုသာ မပြင်ရတာပါလို့ ဆိုလိုတာပါ"ဟု ပြောရာ "ရေးသာ ရေးပါ ကိုယ်တော်"ဟု ဆိုကြလေ၏၊ သို့နှင့် ပေးသောတာဝန်အရ ရေးရလေသည်။

ရေးပြီးသောအခါ စောစောက"မပယ်ဖျက်ရဘူး" ဟူ၍ တင်းထားခဲ့သော်လည်း နောက်တစ်ပတ် အကြိုအစည်းအဝေးပွဲတွင် "ဖျက်ချင်ဖျက်, စွက်ချင်စွက်, ပြင်ချင်တာပြင်ပါ"ဟု အမှာစာရေး၍ တင်ပြလိုက်၏။

## ဖျက်ဖွယ်မလို စွက်ဖွယ်မလို

ထိုအကြိုအစည်းအဝေးပွဲတွင် စာမူကြမ်းကို ကြည့်ရှုကြ၏၊ ဖျက်ဖွယ် စွက်ဖွယ်ရှိသည်ဟု မည်သူမျှ မပြောကြ၊ ထို့နောက် စံကင်းဆရာတော်ဘုရားကြီး၏ ရှေ့တော်မှောက်၌ တစ်ပါးက ဖတ်ပြရ၏၊ စာအုပ်ဆုံးသောအခါ စံကင်း ဆရာတော်ဘုရားကြီးက သာဓုသုံးကြိမ် ခေါ်တော်မူသည်၊ သို့နှင့် ဖျက်စရာမလို, စွက်စရာ မလိုဟု သဘောထားကာ စာမူကို ရိုက်ခွင့်ပေးတော့၏၊ ထို့ကြောင့် "ရွှေကျင်သာသနာပိုင် စံကင်း ဆရာတော်ဘုရားကြီး၏ ဩဝါဒကထာ" အဖြစ် စက်တင် ပုံနှိပ်၍ စာအုပ်ကလေးများဖြစ်အောင် ချုပ်စေလေသည်၊ စည်းဝေးပွဲကြီးတွင် ဝေငှနိုင်ရန် ဖြစ်သည်၊ အုပ်ရေသုံးထောင် ရိုက်ထား၏၊ တဖြည်းဖြည်းနှင့် အစည်းအဝေးပွဲကြီးလည်း နီးကပ်လာလေပြီ၊ စာအုပ်ကလေးများလည်း

လှလှပပနှင့် သပ်သပ်ရပ်ရပ် ချုပ်လုပ်ပြီးကြလေပြီ။

မြန်မာပြည် ထက်အောက်အနှံ့ ပြန့်နေကြသော ရွှေကျင်နိကာယ ကိုယ်စားလှယ် ဆရာတော်များသည် အစည်းအဝေးပွဲရက် နီးကပ်လာသည်နှင့်အမျှ မန္တလေး မဟာဝိသုဒ္ဓါရုံတိုက်သို့ ရောက်လာကြလေပြီ၊ နက်ဖြန် အစည်းအဝေးပွဲကြီးနေ့ ဖြစ်၏၊ ယနေ့လို နေ့လယ်ခင်း၌ တောင်မြို့မှ မန္တလေး မဟာဝိသုဒ္ဓါရုံ တိုက်ကြီးသို့ ဩဝါဒကထာစာအုပ်ကလေးများကို ထုပ်ပိုးထားသော စက္ကူထုပ်ကြီးတစ်ထုပ် ရောက်လာ၏၊ ရောက်လာလာချင်း အထုပ်ကြီးကို ဖြေ၍ သူတစ်အုပ် ငါတစ်အုပ် ဆွဲ၍ ဖတ်ကြရာ ပြဿနာ ပေါ်လာလေတော့သည်။

ဩဝါဒကထာစာအုပ်တွင် အခန်း ၃ ခု ပါရှိ၏၊ ထိုတွင်...

"တတိယအခန်းသည် ခေတ်မီလွန်းနေ၏၊ ပြုပြင် ရေးတွေလည်း ပါနေသည်၊ ရွှေကျင်သာသနာပိုင် စံကင်းဆရာတော်ဘုရားကြီးအနေနှင့် ဤစကားမျိုး မိန့်မြွက်တော်မူမည်မဟုတ်၊ ထို့ကြောင့် ဆရာတော် ဘုရား၏ ဩဝါဒ မဖြစ်သင့်, ဝေလည်း မဝေသင့်" ဟူ၍ ဖြစ်လေသည်။

## ပြဿနာပေါ်လာခြင်း

ဟိုနား စုရုံးစုရုံး, ဒီနား စုရုံးစုရုံး ဝိုင်းဖွဲ့၍ ပြော နေကြလေပြီ၊ အချို့က ကျယ်လောင်ကျယ်လောင် နှင့် အာဘောင်အာရင်းသန်သန် ဝေဖန်နေကြလေ ပြီ၊ လှုပ်လှုပ်ရွရွ ပြဿနာ စလာတော့၏၊ ထိုအထဲ တွင် "ဖျက်ချင်တာ ဖျက်, စွက်ချင်တာ စွက်, ပြင် ချင်တာ ပြင်"ဟူ၍ အကြိုစည်းဝေးပွဲတုန်းက တင်ပြ စဉ်က စာမူကိုသာ ကြည့်ပြီး ဘာမျှ မပြောဘဲနှင့် ရေငုံလာခဲ့ရာမှ ယခုအခါတွင် ပါဝင်ပြောနေသူတို့ လည်း ရှိနေ၏၊ ဤအဖြစ်ကို စံကင်းဆရာတော် ဘုရားကြီး သိသွားသောအခါ စိတ်မကောင်း ဖြစ် တော်မူရရှာသည်။

ဤစာအုပ်ကလေးများအတွက် ကုန်ကျစရိတ်ကို ရန်ကုန်မြို့ ဒကာထိန်ဝင်းနှင့် မိုးကုတ်မှ မိတ်ဆွေ များက အလှူဒါနပြုထားသည်၊ "ယခုလို မဝေရဘူး ဆိုလျှင် ကုန်ရကျိုးမနပ်, အလဟဿ အဟောသိကံ ဖြစ်တော့မည်၊ အဖြစ် မခံနိုင်၊ စံကင်းဆရာတော် ဘုရားကြီးကလည်း ကျေနပ်တော်မူ၍ သာဓု သုံးကြိမ် ခေါ်ပြီးပဲ"ဆိုကာ ဒကာထိန်ဝင်းနှင့်စာချ ဘုန်းကြီးတစ်ပါးက စာအုပ်ကလေးများကို အခန်း တကာ လှည့်ပတ်ပြီး အချိန်မကျသေးဘဲ ဝေပါလေ တော့၏၊ (အမှန်မှာ နောက်တစ်နေ့ အစည်းအဝေး ကြီးကျမှ ဝေရမည် ဖြစ်သည်။)

## အေးအေးနှင့်သည်းခံတတ်ခြင်း

ဤသို့ ပွစိပွစိ ဖြစ်လာသော ပြဿနာသတင်း သည် ချက်ချင်းပင် အမရပူရ(တောင်မြို့)သို့ ရောက် သွားပါလေ၏၊ ဆရာတော် အရှင်ဇနကာဘိဝံသ သည် သူရေးသောစာအတွက် ဤသို့ ပြဿနာတက် နေသော်လည်း မျက်နှာမပျက်ပေ၊ သွေးအေးအေး ပင် ရှိလေ၏၊ သူ့အဖို့ မဆန်းသလိုပင်၊ ခါတိုင်း လည်း အများစုက သူ့အပေါ် ထိုးကြ နှက်ကြသည့် အတွက် ဒဏ်ရာ ဒဏ်ချက်တို့ဖြင့် အမာရွတ်တွေ ထပ်နေပြီ မဟုတ်ပါလော၊ ထို့ကြောင့် မန္တလေးမှ လာ၍ သတင်းပြောကြသော ကိုယ်တော်များကိုပင်

"ကဲ ကဲ ဒီလိုဆိုရင် အဲဒီစာအုပ်ကလေးတွေကို မဝေပါစေနဲ့, လက်ထဲ ရောက်ပြီးသားများကိုလည်း ပြန်တောင်းပါ၊ ဒီမှာ ရှိသေးတဲ့ စာအုပ်တွေရော, အဲဒီရောက်ပြီးသား စာအုပ်တွေရော တစ်မျိုးစီစဉ် ပါ့မယ်၊ တပည့်တော်လည်း မကြာခင် လိုက်လာခဲ့ ပါမယ်" ဟူ၍ မှာလိုက်လေသည်။

ဤသို့လျှင် ဆရာတော် အရှင်ဇနကာဘိဝံသ သည် သွေးအေးအေးနှင့် သည်းခံတတ်၏၊ ပြဿနာ ဖြစ်လာသော်လည်း ခြေမကိုင်မိ လက်မကိုင်မိ အခြေအနေမျိုး မဖြစ်တတ်၊ ဖြစ်ပေါ်လာသော

မန္တလေးသို့ ရောက်သောအခါ စံကင်းဆရာတော်ဘုရားကြီးအား "ဆရာတော်ကြီးပြဲဝါဒဟု ခေါင်းစဉ်မတပ်ဘဲ တပည့်တော်၏ လျှောက်ထားချက်" အနေဖြင့် ပြင်လိုက်ပါမည်ဟု လျှောက်ထားပြီးလျှင် "အရှင်ဇနကာဘိဝံသ၏ သာသနာရေး လျှောက်ထားချက်"ဟု ပြင်တော်မူလိုက်ပါသည်။

ပြဿနာကို "သဘာဝကျကျ ဘယ်လို ဖြေရှင်းရမည်နည်း"ဟုသာ သွေးအေးအေးဖြင့် တွေးတတ်၏၊ ခေါင်းအေးအေးဖြင့် စဉ်းစားတတ် စီစဉ်လုပ်ကိုင်တတ်သည်၊ ထို့ကြောင့် ချက်ချင်းလိုပင် မန္တလေးသို့ လိုက် သွားသည်၊ တောင်မြို့မှာ ရှိသေးသော စာအုပ်တို့ကို လည်း ထပ်မံယူသွား၏။

## အရှင်ဇနကလျှောက်ထားချက်

ဆရာတော်က "ဒီစာအုပ်ကို ဟောဒီလို နာမည်ပြောင်းပေးပါ၊ **အရှင်ဇနကာဘိဝံသ၏ သာသနာတော်ရေးလျှောက်ထားချက်**လို့ မျက်နှာဖုံးက စာလုံးကြီးနှင့်ရိုက်ပါ၊ ဟောဒီစာတွေကိုတော့ နိဒါန်းအဖြစ်နှင့်ထည့်, ဟောဒီ အရှေ့ပိုင်း နှစ်မျက်နှာကို ဒီလိုပြင် ရေးလိုက်တယ်၊ အဲ-ဒီကနေ့ည စာစီ, အပြီးရိုက်, ဟုတ်လား၊ ရိုက်ပြီးရင် ဆက်တိုက်ပဲ နက်ဖြန်စည်းဝေးပွဲကြီးအမီ ဝေနိုင်အောင် အချိန်ပိုထားပြီး လူများများနှင့် ဝိုင်းချုပ်ကြ"ဟူ၍ မှာလိုက်လေသည်။

ဆရာတော် အရှင်ဇနကာဘိဝံသသည် သွေးအေးအေးနှင့် သည်းခံတတ်သလောက် သတ္တိအရာတွင်လည်း ခေလှသူမဟုတ်၊ မိမိက စေတနာကောင်းဖြင့် ပြုလုပ် ကြိုးစားပါလျက် အများက မကောင်းထင် အပြစ်မြင်လာပါလျှင် နောက်သို့ ဆုတ်တတ်သည့်အလေ့ မရှိ၊ သတ္တိရှိရှိနှင့် ရှေ့ကို တိုးမြဲသာ တိုးတတ်လေသည်။

ထိုသို့ စီမံလိုက်တော့မှ ဆရာတော်၏တပည့်တို့သည် ဆရာတော်၏လုပ်ငန်းကို သဘောပေါက်သွားတော့၏၊ ထိုအခါကျမှ "ပြော်-ဒါ့ကြောင့်ကိုး, စောစောကထင်မိတာက 'မဝေသင့်ဘူး, မဝေရဘူး' ဆိုလျှင် အကုန် မီးရှို့ရမည်လားလို့ ထင်ခဲ့တာ၊ ဒီလို အစီအစဉ် ပြောင်းလိုက်တာကိုး"ဟု သဘောပေါက်ကြရတော့၏၊ စာအုပ်ငယ်များလည်း ညတွင်းချင်း ပြန်လည်ပြုပြင် ရိုက်နှိပ်ပြီးစီးသည်၊ နောက်တစ်နေ့ အစည်းအဝေးအပြီးတွင် အားလုံး ဝေငှ လျှုဒါန်းနိုင်ခဲ့သည်။

## ခန္တီတရား ဟောမိန့်ကြား

ဆရာတော် အရှင်ဇနကာဘိဝံသအတွက် ဤသို့ တွေ့ရသည်မှာ အထူးအဆန်း မဟုတ်တော့ချေ၊ သူ့ဘဝတစ်လျှောက်လုံးလိုလိုပင် မကြာခဏ တွေ့ရတတ်၏၊ ပြစ်တင်ကြ၏, ဝေဖန်ကြ၏, ပုတ်ခတ်ကြ၏၊ မကြာသေးမီကပင် "ထီးဆောင်းမောင်ရှင်"ဆိုသူက ဆရာတော် အရှင်ဇနကာဘိဝံသကို မဟုတ်မဟတ် လုပ်ဇာတ်သက်သက်ခင်း၍ နဝဒေးမဂ္ဂဇင်းက နေပြီး သရော်ထား၏, ကဲလော်ထား၏၊ ထိုအပတ်က ထိုမဂ္ဂဇင်း ရောင်း၍မလောက်အောင် ဖြစ်သွားသည်။

ယင်းအတွက် သက်ဆိုင်ရာ နီးစပ်ရာတို့က မခံနိုင်လွန်း၍ "ပြန်ပြီးရေးမည်"ဟု ဆိုကြသည်၊ ထိုအခါ ဆရာတော် အရှင်ဇနကာဘိဝံသက တားမြစ်၏၊ "သည်းခံကြလေ"တဲ့၊ "လောကမှာ ရှိတတ်စမြဲပဲ"တဲ့၊ "ဒါမှလဲ တို့ ခန္တီပါရမီ ပြည့်တော့မပေါ့"တဲ့၊ ဘဝသံသရာထဲမှာ တို့တစ်တွေနှင့် သူတို့တစ်တွေဟာ ဘယ်လို ဇာတ်ကောင်တွေအဖြစ်နှင့် က သွားကြရမယ် မသိနိုင်သေးဘူး"တဲ့၊ ဤသို့သော ဆရာတော်ပါပေ။ (ထိုထီးဆောင်းမောင်ရှင်ဟူသည် ဆရာတော်၏ တပည့်ကြီးတစ်ပါးပင် ဖြစ်သည်။)

ယခုလည်း သွေးအေးအေးဖြင့် သည်းခံကာ သူ့စေတနာကို ဆက်လက် အကောင်အထည်ဖော်လေ၏၊ ထိုအစည်းအဝေးပွဲကြီး၌ ဓမ္မကထိကများ အလှည့်ကျ တရားပွဲပါလေရာ ဆရာတော် အရှင်ဇနကာဘိဝံသက သူ့အလှည့်တွင် "ခန္တီတရား လက်ကိုင်ထားသင့်ကြောင်း" ခေါင်းစီးတပ်ကာ...

2/H

ဘုရားလောင်း၏ ခန္တီပါရမီဖြည့်ခန်းကို တခမ်းတနား အကျယ်ချဲ့၍ ဟောကြားလေသည်။

ဤပွဲကြီးနှင့် အရှင် ဇနကာဘိဝံသ၏ အဖြစ်အပျက်ကို သိမြင်ထားသော ဆရာတော်များက အံ့အားသင့်ကြရလေ၏၊ ဆရာတော်၏စေတနာနှင့် ဆရာတော်၏ စိတ်ဓာတ်ကိုလည်း ဤပွဲကြီး၌ ဖွင့်ပြခွင့်ရသလို ဖြစ်သွားတော့၏၊ ဆရာတော် အရှင် ဇနကာဘိဝံသကား ဘောလုံးပမာ ဖြစ်တော့သည်၊ ဖိနှိပ် ပုတ်ခတ်လေ ပို၍ မြင့်စွာ ခုန်တက်လေ ဖြစ်သတည်း။



စံကင်းဆရာတော်ဘုရားကြီးက...
"ထိတော့ ထိပါတယ်လေ, မနာဘူး မဟုတ်လား"တဲ့။

ဓာ၁၇



သက်တော် ၁၀၂ နှစ်ရှိ
စံကင်းဆရာတော်ဘုရားကြီး



"ဒီ အနတ္တအကြောင်းအရာတွေက
သိမ်မွေ့တယ်"

## စံကင်းဆရာတော်ဘုရားကြီး မိန့်စကား

### စံကင်းဆရာတော်ကြီးစကားလုံး

ဒသမအကြိမ်မြောက် ရွှေကျင်ဂိုဏ်းလုံးဆိုင်ရာ အစည်းအဝေးပွဲကြီး ပြီးလေပြီ၊ ပြီးခဲ့သမျှ အဖြစ်အပျက်တွေကို စုပေါင်းဝိုင်းဖွဲ့၍ ပြောနေကြလေ၏၊ စံကင်းဆရာတော်ဘုရားကြီး၏ အနားတွင်လည်း ထိုနည်းနှင်နှင် ပြောနေကြလေသည်၊ စံကင်းဆရာတော်ဘုရားကြီးသည် သက်တော် ၉၃ နှစ်ရှိပြီဖြစ်၍ ဇရာဒုဗ္ဗလကြောင့် မျက်စိအလင်းအား မသန်သော်လည်း နား၌ ကြားရုံမျှဖြင့် မည်သူမည်ဝါဟု သိတော်မူနိုင်၏၊ ထိုအကြောင်းများတွင် "အရှင် ဇနကာဘိဝံသကို ချကြ နှက်ကြသဖြင့် သက်သာလှသည် မဟုတ်, အတော်ကလေး အထိနာမည်ဟု ထင်ရသည်၊ ကာယကံရှင်မှ ပို၍ သိမှာပဲဘုရား" ဟု တစ်ပါးက ဆရာတော်ဘုရားကြီးအား လျှောက်ထားလေ၏။

ထို့ကြောင့် ... "ဘယ့်နှယ်လဲ မောင်ဇနက"ဟု ဆရာတော်ဘုရားကြီးက တိုက်ရိုက် မေးလေ၏၊ ထိုအခါ အရှင်ဇနကာဘိဝံသက "အများကတော့ ထင်ကြမှာပဲဘုရား, တပည့်တော် အတော်နာလိမ့်မယ်လို့, ဒီလို ဝိုင်းပြီး ထိုးကြ, နှက်ကြ, ပစ်ကြ, ပေါက်ကြပေမယ့် တပည့်တော်ကို မထိပါဘူးဘုရား"ဟု လျှောက်ထားလေ၏။

ထိုအခါ ဆရာတော်ဘုရားကြီးက...

"ထိတော့ ထိပါတယ်လေ,မနာဘူး မဟုတ်လား" ဟု မိန့်လိုက်ရာ အရှင်ဇနကာဘိဝံသမှာ ခွက်ထိုးခွက်လှန် ရယ်မောလှမျှ သဘောကျသွားရလေ၏၊ "ဟုတ်လိုက်တာဘုရား, ဆရာတော်ကြီး ပြောတာ သိပ်မှန်တာပဲ, ဆရာတော်ဘုရားကြီးရဲ့စကားလုံးဟာ သိပ်တိကျပြီး သိပ်ထိလှပါတယ်ဘုရား"ဟု ဝန်ခံရလေ၏၊ စံကင်းဆရာတော်ဘုရားကြီး၏ စကားလုံးသည် စံကင်းလောက်အောင်ပင် ဟုတ်နေ၏။

## အမှန်မှာကား နာသည်သာတည်း

မှန်ပါသည်... အရှင်ဇနကာဘိဝံသသည်လည်း သာမန်ပုထုဇဉ်မျှသာ မဟုတ်ပါလော၊ အနာဂါမ်, ရဟန္တာ မဟုတ်သမျှ နှုတ်က ထုတ်ဟ၍ ပြောဆိုကာကွယ်နေသော်လည်း အစစ်အမှန် မဟုတ်နိုင်ကြောင်း ဆရာတော်ဘုရားကြီး သိပြီးဖြစ်၏။

ပုထုဇဉ်မှန်လျှင် လောကဓံနှင့်တွေ့ပါက နှလုံးသား၌ စပ်ရှားရှား အခံရခက်မည်ကိုလည်း သိထားတော်မူ၏၊ ထို့ကြောင့် ဤသို့ မေးတော်မူခြင်း ဖြစ်ပေသည်။

သို့သော် အရှင်ဇနကာဘိဝံသမှာ ခံရပေါင်းများနေပြီ ဖြစ်၍ ဒဏ်ရာ ဒဏ်ချက်တို့ဖြင့် စပ်လျက်အမာရွတ်တွေ ထပ်လျက်နေသောကြောင့် အရေထူနေ၍သာ မနာသလို ဖြစ်နေသည်။

အမှန်ကား နာသည်သာတည်း၊ ဤသည်ကို ဆရာတော်ဘုရားကြီးက အတွင်းသိ အစင်းသိဖြစ်၍ အထက်ပါအတိုင်း မိန့်တော်မူလိုက်ခြင်း ဖြစ်ပါသည်၊ အရှင်ဇနကာဘိဝံသသည်လည်း ဝန်ခံရလေ၏။

ဝန်ခံရုံမျှမက စပ်မိတိုင်း "စံကင်းဆရာတော်ဘုရားကြီး၏ စကားလုံးကလေးတွေဟာ စံနမူနာကင်းလောက်အောင် မှန်လှပါပေတယ်"...ဟု လက်အုပ်ကို မြှောက်၍ မြှောက်၍ ချီကာ ဦးတင်ကာဖြင့် ချီးမွမ်း၍ နေပါတော့သည်။

ထို့ပြင် ဆရာတော်ဘုရားကြီး၏ ဤစကားလုံးကလေးတို့က တွေ့ကြုံခဲ့ရသော ဒုက္ခ အားလုံးကို ဖုံးပြီးလျှင် နှလုံးပီတိ ကျေနပ်မှုရှိအောင် စွမ်းဆောင်နိုင်သဖြင့် အရှင် ဇနကာဘိဝံသမှာလည်း အထွေထွေ အရပ်ရပ် ကျေနပ်ရလေသတည်း။

၁၉

# ဒီကနေ့ ဗုဒ္ဓယဉ်ကျေးမှုကို ကျင့်သုံးပြရမယ်

## ဆရာတော်နှင့်ပရိုဖက်ဆာ

၁၃၂၇ ခု (၁၉၆၅ ခု) နှစ်ထဲက ဖြစ်သည်... အင်္ဂလန်မှ ပရိုဖက်ဆာ ဆရာကြီး တစ်ယောက် ဂန္ဓာရုံသို့ ရောက်လာခဲ့၏၊ ထိုဆရာကြီးသည်... အင်္ဂလန်မှာ ထင်ရှားသော ဆရာကြီးရှစ်ယောက်တွင် တစ်ယောက်အပါအဝင် ဖြစ်သည်၊ ပရိုဖက်ဆာကြီး မရောက်ခင် တစ်ပတ်လောက်က ကြိုတင်၍ အကြောင်းကြားထား၏။

ဆရာကြီး ရောက်လာတဲ့အခါ ဘာသာရေးဆိုင်ရာ ဆွေးနွေးမေးမြန်းလိုပါကြောင်း, ကျောင်းတိုက်သို့ ခေါ်လာပါမည့်အကြောင်း မန္တလေးမြို့က ဝတ်လုံတော်ရ ဦးသာကြွယ်, ဗိုလ်ကြီး ဦးဘဖေ, ဦးခင်မောင်ဒွေးနှင့် ဦးစံလှပေါ် တို့က ကြိုတင်လျှောက်ထားနှင့်ကြသည်။

နက်ဖြန် လာတော့မည်ဆိုသောအခါ ယနေ့လိုက တစ်ဖန် ထပ်မံ၍ လျှောက်ကြပြန်၏၊ ထိုကိစ္စနှင့်ပတ်သက်၍ ဆရာတော်က အောက်ပါအတိုင်း ထိုနေ့ နံနက်ခင်း ဩဝါဒတွင် မိန့်ကြားတော်မူသည်။

"ဒီကနေ့ မနက် ၁၀ နာရီခန့်လောက်မှာ... အင်္ဂလန်က ပရိုဖက်ဆာဆရာကြီးတစ်ယောက် ဒီကျောင်းတိုက်ကို ရောက်လာမယ်လို့ မနေ့တုန်းက ဒကာတွေ လာလျှောက်သွားကြတယ်၊ မနေ့တုန်းကတင် မကဘူး၊ လွန်ခဲ့တဲ့ တစ်ပတ်လောက်တုန်းက စပြီး ပထမအကြိမ် ကြိုတင်လျှောက်ခဲ့ကြပါသေးတယ်၊ အဲဒီတုန်းကပဲ ဘုန်းကြီးက ရောက်လာမယ့် ဆရာကြီးရဲ့ အသက်အရွယ်ကို မေးကြည့်တော့ ၆၀ ပတ်ဝန်းကျင်လောက် ရှိမယ်လို့ သိရတယ်၊ ဘုန်းကြီးကလည်း ဒီအရွယ်ပဲ၊ ဒါနဲ့ ဆရာကြီးနှင့်တွေ့ရမယ့် အခြေအနေကို ဘုန်းကြီးက မှန်းဆကြည့်မိတယ်"

## မေတ္တာစစ်စစ်ပို့ခဲ့ပါတယ်

"အင်း...ဆရာကြီးက အင်္ဂလန်မှာ ထိပ်တန်း ပရိုဖက်ဆာကြီး, တက္ကသိုလ်ကျောင်းကြီးတွေက ထွက်လာတဲ့ပုဂ္ဂိုလ်, ငါက ဘုန်းကြီးကျောင်းထွက်ဖြစ်တဲ့ ဘုန်းကြီး၊ ဒီတော့ ကမ္ဘာ့ဗဟုသုတ အပြည့်အဝရှိတဲ့ ဆရာကြီးနှင့် ငါက စကားပြောရမှာ ကြောက်သလား? ရွံ့သလား?လို့ ကိုယ့်ကိုယ်ကို မေးကြည့်မိတယ်၊ "ဘာကြောက်စရာရှိသလဲ, ဘာရွံ့စရာရှိသလဲ၊ ငါ့မှာလဲ ဗုဒ္ဓမြတ်စွာရဲ့ တရားတော်တွေ, ဗဟုသုတတွေ ရှိနေတာပဲ၊ ဗုဒ္ဓမြတ်စွာရဲ့ ယဉ်ကျေးမှုတွေကို အသုံးပြုပြီးတော့ ဆရာကြီးနှင့် တွေ့မယ်, စကားပြောမယ်"လို့ အဖြေထွက်လာပါတယ်၊ အဲဒီကတည်းကစပြီး ဆရာကြီးကို မှန်း၍ မေတ္တာစစ်စစ် ပို့လာခဲ့ ပါတယ်၊ ကြားရက်တွေမှာလဲ မကြာ မကြာ ပို့ပါ တယ်၊ အခုလဲ ပို့နေဆဲပါပဲ။

ပြီးတော့ မှာလိုက်ရသေးတယ်၊ မနေ့တုန်းက လာလျှောက်တဲ့ဒကာတွေကို "ဆရာကြီးလာတဲ့အခါ ထိုင်ဖို့နေရာကို ဘုန်းကြီးတို့က ခင်းမပေးကောင်းဘူး, ဒါကြောင့် ဒကာတို့က အလျင်ရောက်အောင်လာပြီး နေရာကုလားထိုင်ခင်းကြပါ"လို့၊ အဲလို ဘုန်းကြီးဘက်က ကြိုကြိုတင်တင် ပြင်ပြင်ဆင်ဆင်နှင့် အသင့်အနေအထား ရှိပါတယ်။

အင်း ... ဒီနေ့တော့ ဗုဒ္ဓ ရှင်တော်မြတ်ရဲ့ ယဉ်ကျေးမှုတွေကို အစွမ်းကုန် ထုတ်ဖော်ကျင့်သုံးပြရမှာပဲ၊ ဗုဒ္ဓအကြောင်းကိုလည်း ဖွင့်ဖော်ရမှာပဲ။

## ဗုဒ္ဓမြတ်စွာရဲ့ယဉ်ကျေးမှု

ထိုအကြောင်းအရာနှင့် ပတ်သက်၍ နောက်တစ်နေ့ နံနက်ခင်း သံဃာတော်များအား ဩဝါဒပေးချိန်တွင် ဆရာတော်က ထပ်မံ မိန့်ပြန်၏၊ "မနေ့တုန်းက အင်္ဂလန်က ပရိုဖက်ဆာကြီး ရောက်လာပါတယ်၊ မှာထားတဲ့အတိုင်း ဒကာတွေလဲ ကားပေါ်က ဆင်းရင်ပဲ ဆရာကြီး အလျှင် ကြိုတင်လာကြပြီး ကုလားထိုင် ခုံတန်းလျားများ ဆွဲယူခင်းကြပါတယ်၊ ဆရာကြီးလည်း မရှေးမနှောင်း ကျောင်းလေးပေါ်ကို ရောက်လာပါတယ်၊ ဘုန်းကြီးနှင့်ဆရာကြီးတို့က ကုလားထိုင်နှင့်, စကား ပြန်လုပ်မည့် ဝတ်လုံတော်ရ ဦးသာကြွယ်ကလဲ ကုလားထိုင်နှင့်ပါပဲ, ထိုင်ကြတယ်၊ ပြီးတော့ လိုက်ပါလာကြတဲ့ အင်္ဂလိပ်သံအရာရှိ, ကောလိပ်ကျောင်းဆရာများနှင့် ဦးခင်မောင်ဒွေး, ဦးစံလှပေါ် စသူတို့ကတော့ ခုံတန်းလျားနဲ့ပေါ့။

ဘုန်းကြီးက သတိထားတယ်၊ ကုလားထိုင်ပေါ် ထိုင်တဲ့အခါ ... ဘုန်းကြီးရဲ့ ကုလားထိုင်အောက် ခြေထောက်ချပုံ, လက်ထားပုံ, မျက်နှာထားပုံမှစပြီး အားလုံးကို သတိရှိစေပါတယ်၊ ဆရာကြီးကို အရိုအသေ ပေးတာလဲ မဟုတ်, မလေးမစားလဲ မဟုတ်တဲ့ ဗုဒ္ဓယဉ်ကျေးမှုအတိုင်းပေါ့။

အားလုံးထိုင်မိကြတယ်ဆိုရင်ပဲ ဘုန်းကြီးကစပြီး "ဆရာကြီး လာမယ်ဆိုတာ ဒကာများက အကြောင်းကြားထားနှင့်လို့ ဝမ်းမြောက်နေပါတယ်၊ ဆရာကြီးနှင့် ဘုန်းကြီးဟာ ယခုမှ တွေ့ရသော်လဲ ဗုဒ္ဓတရားတော်အရ ရှေးရှေးဘဝများစွာကလဲ ရင်းရင်းနှီးနှီး တွေ့ခဲ့ကြပြီး ဖြစ်တယ်လို့ ဆိုနိုင်ပါတယ်။

ဒါကြောင့် ဘုန်းကြီးကို ယခုမှ တွေ့ရပေမယ့် ရှေးရှေးက ရင်းနှီးပြီးသား သိဟောင်းကျွမ်းဟောင်းလို သဘောထားပြီး မေးလိုတာ မှန်သမျှ အားမနာပဲ မေးပါ, အားနာနေရင် မေးချင်တာတွေ ချန်ထားရလို့ အားမရဘဲ ရှိနေတတ်ပါတယ်"လို့ ... ပြောလိုက်တယ်။

## ပြန်တောင်မပြန်ချင်သေး

ဒီတော့ ဆရာကြီးစိတ်ထဲမှာ ရင်းရင်းနှီးနှီး ဖြစ်သွားပုံပဲ, မျက်နှာအနေအထားအရ သိနိုင်ပါတယ်၊ ဒီတွင် ဆရာကြီးက "ကျေးဇူးတင်ပါတယ်"လို့ ပြောပြီး သူမေးချင်တာတွေ မေးတာပါပဲ၊ မေးတာတွေကလဲ ဘာသာရေးဆိုင်ရာတွေချည်းပါပဲ၊ ဘုန်းကြီးကလဲ ဖြေပါတယ်၊ ဒါတွေက ဘုန်းကြီးတို့အဖို့ ဝန်မလေးပါဘူး၊ ပြောနေကျ ဆိုနေကျ ဖြေနေကျတွေပါပဲ၊ သူက မေးလိုက်, ဘုန်းကြီးက ဖြေလိုက်၊ ထပ်မေးလိုက် ထပ်ဖြေလိုက်နှင့် ဘယ်လောက်ကြာသွားတယ်တော့ မပြောတတ်ပါဘူး, ... ဝတ်လုံတော်ရ ဦးသာကြွယ်က "ထမင်းစားဖိတ်ထားတဲ့ နေရာကို သွားဖို့ အချိန် နီးနေပါပြီ"လို့ ပြောမှ ဆရာကြီးက သူ့လက်ပတ်နာရီကို မြှောက်ကြည့်ပြီး "ပြန်တောင် မပြန်ချင်သေးဘူး"လို့ ပြောတယ်၊ သူလဲ အလွန်ကျေနပ်နေတဲ့ပုံပါပဲ။

အဲဒီနောက် ဆရာကြီးက "သူမေးတာကို ဖြေတဲ့သဘောမဟုတ်ဘဲ ဆရာတော် ပြောချင်တာကို ၁၀ မိနစ်လောက်ထပ်ပြောပါဦး"လို့ လျှောက်တဲ့အတွက် ဘုန်းကြီးက "သက်ရှိ သက်မဲ့ အရာဝတ္ထုအားလုံးဟာ အနိစ္စ (မမြဲ)တာချည်းပဲ" ဖြစ်တဲ့အကြောင်းကို ဝိပဿနာ အကျဉ်း ဟောလိုက်တယ်, ပြီးတော့ အမြဲတမ်း စိတ်ချမ်းမြေ့မှုရဖို့အတွက် မေတ္တာပွားဖို့လဲ ဟောလိုက်ပါသေးတယ်။

ဆရာကြီးလဲ နားစိုက်ထောင်နေပြီး "ကျေးဇူးတင်ပါတယ်"လို့ ပြောတယ်၊ ပြီးတော့မှ ဘုန်းကြီးကို အလွန်ရိုသေတဲ့ အမူအရာနှင့် ခွဲခွာသွားကြတယ်၊ ကျောင်းတိုက်ကိုလဲ လှည့်ပတ်ကြည့်ရှုသွားကြလေရဲ့၊ ဒါဟာဆိုရင် ဗုဒ္ဓမြတ်စွာရဲ့ ယဉ်ကျေးမှုကို အဓိကထားပြီး အသုံးပြုလိုက်တဲ့ ကိုယ်မှု နှုတ်မှု စိတ်မှုကြောင့်ပဲပေါ့၊ "ပြန်တောင် မပြန်ချင်သေးဘူး"တဲ့။

## နောက်ဘဝတွေမှာတောင် တွေ့ချင်ပါသေး

### မေတ္တာကွန်ရက် ဖြန့်ကြက်ပါလျှင်

မေတ္တာစာတ်ဟူသည် ဘာသာ ခြားသူကိုရော, ဘာသာ မဲ့သူကိုရော ပုဂ္ဂိုလ်မရွေး အေးမြစေနိုင်၏၊ အပြစ် ကင်း၍ ဖြူဖြူသန့်သန့် ပြန့်တတ်သော သဘောရှိသည်၊ တရားမျှတသော အအေးဓာတ်ဖြင့် ထွေးပတ်နိုင်စွမ်းရှိ၏၊ ကွန်ယက်လိုလည်း ဖြန့်ကြက် ဖမ်းယူနိုင်သည်။

*ဗုဒ္ဓလက်ထက်တော်တုန်းက အရှင်အာနန္ဒာ၏ သူငယ်ချင်း ရောဇ အပေါ် ရှင်တော်ဗုဒ္ဓက ဩဓိသမေတ္တာအအေးဓာတ်ဖြင့် ထွေးပတ်လွှမ်းခြုံပြီး လွှတ်ဖူး၏၊ ထိုအခါ ရောဇမှာ နို့စို့နွားငယ်ကလေးက မိခင်နွားမကြီး ပျောက်သဖြင့် တဘူးဘူး တဘဲဘဲမြည်ရင်း လျှောက်၍ ဒေါင်းတောက်အောင် လိုက်၍ ရှာသလို ကျောင်းတော်သို့ အပြေးအလွှား ရောက်လာပြီးလျှင် "ရှင်တော်ဗုဒ္ဓကို ဖူးပါရစေ, ဘယ်မှာ နေပါသလဲ"ဟု မေးမြန်းလျက် အငန်းမရ လိုက်၍ ရှာဖူးသည်။

ဆရာတော် အရှင်ဇနကာဘိဝံသက ဤဝတ္ထုကို သဘောကျ၏၊ မေတ္တာဓာတ်၏ စွမ်းအင်ကို ပီပီပြင်ပြင် ဖော်ပြထားသော သာဓကပင် ဖြစ်၏၊ သာသနာပြုသူတို့အတွက်... ဤ လက်နက်သည် အရေး ကြီး၏၊ ရှင်တော်ဗုဒ္ဓနှင့် ဗုဒ္ဓ၏သာဝကများ (အရှင်သုဘူတိကဲ့သို့ မေတ္တာစျာန်ဝင်စားရာ၌ တေဒဂ်ရသူများ) အသုံးပြုခဲ့သော လက်နက်လည်း ဖြစ်သည်၊ ဤသို့ မမှိတ်မသုန် ယုံကြည်၍ ကိုယ်တိုင်လည်း အသုံးပြုလျက်နေသည်၊ ထို့ကြောင့်လည်း ထိုက်သင့်သလောက် အောင်မြင်မှုများ ရပါ၏။

### ဘာသာချင်းပင်မတူသော်လည်း

အမရပူရမြို့ တရုတ်တန်းရပ်တွင် ခရစ်ယာန် သာသနာပြု စိန်ပီတာကျောင်းကြီးတစ်ခု ရှိသည်၊ မြင့်မားသော အုတ်တံတိုင်းကြီးများဖြင့် ပတ်လျက်ရှိ၏၊ အမျိုးသမီးငယ်များချည်း စုစည်းထိန်းကျောင်းနေသော ဌာနကြီးပင် ဖြစ်သည်၊ စည်းကမ်းလည်း ကြီးမား၍ တင်းလည်း တင်းကျပ်လှသည် ဟူ၏။

ဘာသာချင်းပင် မတူသော်လည်း ထိုကျောင်းကြီးမှ ခရစ်ယာန်ဆရာမကြီးများသည် ဂန္ဓာရုံသို့ မကြာ မကြာ လာ၍ ကျောင်းတိုက်အတွင်း လှည့်ပတ်ကြည့်ရှုတတ်ကြသည်၊ သီလရှင်ဝတ်ရုံကြီးများနှင့် ဆရာမကြီးများသည် အလွန်သိက္ခာရှိကြသည်၊ ဆရာတော်ကလည်း ဖော်ဖော်ရွေရွေ ဆက်ဆံ၏၊ "နေထိုင်မကောင်းလျှင် ပြောပါ, ဆေးကုပေးပါမည်" ဟု ဆရာဝန်ကြီးများက ဖိတ်မန်သည်။

ဤသို့လျှင်...ဘာသာဝင်ချင်း မတူကြစေကာမူ မေတ္တာကို အရင်းခံကြသဖြင့် ဆက်ဆံရေး ပြေလည်ကြ၏။

နောက်ပိုင်းတွင် ထိုဆရာမကြီးတို့သည် ဤ မြန်မာနိုင်ငံမှာ နေခွင့်မရတော့၍ အမိနိုင်ငံ ပြင်သစ်ပြည်ကို ပြန်ခါနီးတွင် "နောက်ဘဝတွေမှာတောင် တွေ့ချင်ပါသေးတယ်"ဟူ၍ ဆရာတော့်ထံပါးမှာ ဝမ်းနည်းစကား လာ၍ ပြောသွားကြလေသည်။

### အီတလီသူအမျိုးသမီး

တစ်ခါတုန်းက အီတလီအမျိုးသမီးတစ်ဦး ဂန္ဓာရုံသို့ ရောက်လာဖူးသည်၊ သူတို့နိုင်ငံမှာ ပီအိပ်ချ်ဒီဘွဲ့ရပြီးနောက် အင်္ဂလန်က ထိုဘွဲ့မျိုးကို ထပ်ယူဖို့ ကြိုးစားနေသော အမျိုးသမီးတစ်ယောက်ဖြစ်သည်၊ သူမသည် လောကီပညာအနေနှင့် ထိပ်တန်းရောက်နေသူ ဖြစ်၏၊ သို့သော် ဘာသာရေးအနေနှင့်ကား မည်သည့်ဘာသာကိုမျှ မကိုးကွယ်ခဲ့ချေ၊ ဘာသာမဲ့သူ ဖြစ်သည်၊ မြန်မာနိုင်ငံ မန္တလေးသို့ ရောက်လာ၍

---

* ဝိနယ မဟာဝဂ္ဂပါဠိ–၃၄၅ (ရောဇမလ္လဝတ္ထု)

ဦးမောင်မောင်တင် (မဟာဝိဇ္ဇာ)က ဂန္ဓာရုံသို့ ခေါ်လာသည်၊ ဂန္ဓာရုံမှာ ရှိနှင့်နေသော (အမ်အေ)ဘွဲ့ယူဖို့ စာတမ်းပြုစုနေသည့် ဗုဒ္ဓဘာသာ ဂျာမန်အမျိုးသမီး မဥမ္မာနှင့် တွေ့ကြ၏။

ထိုအခါ သူလည်း အချိန်ရသလောက် ဆရာတော့် အနားမှာနေပြီး "ဘာသာရေးကို မေးချင်တယ်"ဟု ဆိုသည်၊ အခွင့်ပြုသောအခါ သုံးရက်လောက်နေသွား၏၊ သူတို့ နှစ်ယောက်သည် ဆရာတော့်ထံသို့ အချိန်ရသလောက် မကြာ မကြာလာ၍ ဘာသာရေးဆိုင်ရာတို့ကို မေးကြသည်၊ မဥမ္မာက စကားပြန်လုပ်ရသည်။

အီတလီအမျိုးသမီးသည် စေ့စပ်၏၊ သေချာ၏၊ ဇွဲကောင်း၏၊ သူနားမလည်လျှင် ထပ်၍ ထပ်၍ မေးသည်၊ ထိုအခါ ဆရာတော်က စိတ်ရှည်ရှည်ထား၍ နားလည်လောက်အောင် ဥပမာ ဥပမေယျတို့ဖြင့် ပြောပြရ၏၊ နောက်ဆုံးတွင် ဆရာတော်၏ အဖြေများသည် သူမ၏ဘဝ, သူမ၏အမြင်ကို ကြည်ကြည်လင်လင် ပီပီပြင်ပြင် ပြောင်းလဲသွားစေတော့၏။

## အမြင်တစ်မျိုးပြောင်းခဲ့ပြီ

ထို့ကြောင့် သူမက ပြောပြသည်မှာ "ဟိုတုန်းက ပရလောက နောက်ဘဝ မရှိဘူးလို့ ထင်ခဲ့တာ, အခု အမြင်တစ်မျိုး ပြောင်းသွားပြီ၊ နောက်ဘဝရှိတယ်လို့ လေးလေးပင်ပင် ယုံကြည်လာပြီ"ဟု ပြောတော့၏။

ထို့နောက် ဆရာတော်ကို ကြည်ညိုလှ၍ ဓာတ်ပုံအမျိုးမျိုးရိုက်ယူ၏၊ ကျေးဇူးတင်စကား များစွာပြောကြား၏၊ လေးစားမှုလည်း ပိုလာသည်၊ ပြန်ခါနီးတွင် "ယခုဘဝမှာတော့ အခက်အခဲအမျိုးမျိုးကြောင့် ပြန်တွေ့ချင်မှ တွေ့ရတော့မယ်, နောင်ဘဝတွေမှာတော့ ပြန်တွေ့ချင်ပါသေးတယ်"ဟု အားငယ်စွာ လျှောက်ထားသွားလေသည်။

ဤသည်တို့ကား ဖြူစင်သန့်ပြန့်သော မေတ္တာဓာတ်၏ ရောင်ပြန်ဟပ်မှုတို့ပင် ဖြစ်ကြ၏၊ ထို့ကြောင့်ပင် "မေတ္တာဓာတ်ဟူသည် ဘာသာခြားသူကိုရော, ဘာသာမဲ့သူကိုရော ပုဂ္ဂိုလ်မရွေး အေးမြစေနိုင်၏"ဟု ဆိုခဲ့ခြင်း ဖြစ်သည်။

# ဥက္ကဋ္ဌကြီးနှင့် ဆရာတော် အရှင်ဇနကာဘိဝံသ

## မေတ္တာရှေ့ထားဆောင်ရွက်ပါ

ဥက္ကဋ္ဌကြီး ဦးနေဝင်း (ထိုစဉ်က ဗိုလ်ချုပ်ကြီးနေဝင်း)သည် ၁၃၂၈ ခု တပို့တွဲလဆုတ် ၁ ရက် (၂၅-၂-၆၇)နေ့က တစ်ကြိမ်, ၁၃၂၉ ခု သီတင်းကျွတ်လဆန်း ၁၃ ရက် (၁၆-၁၀-၆၇)နေ့က တစ်ကြိမ်, ၁၃၂၉ ခု နတ်တော်လဆန်း ၁၃ ရက် (၁၄-၁၂-၆၇)နေ့က တစ်ကြိမ် ပေါင်းသုံးကြိမ် အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက် ဆရာတော်ထံ ရောက်ဖူး၏၊ ဗိုလ်ချုပ်ကြီးသည် နိုင်ငံခေါင်းဆောင်ဖြစ်နေသည့်အလျောက် တာဝန်ရှိသည့်အားလျော်စွာ မိမိတို့ နိုင်ငံအတွက် လူမှုရေး, စီးပွားရေး, ပညာရေး, နိုင်ငံရေးတို့နှင့်ပတ်သက်၍ ဘက်စုံအောင် ဆွေးနွေးတိုင်ပင်ကြကာ ဖွံ့ဖြိုးတိုးတက်ဖို့ ကြိုးစားနေချိန်ဖြစ်သည်၊ တစ်ဖက်မှလည်း စာရိတ္တယဉ်ကျေးမှုအတွက် မျက်ခြည်ပြတ်မသွားအောင် စဉ်းစားနေရသော အချိန်ဖြစ်သည်။

ထိုအခိုက်တွင် ဗိုလ်ချုပ်ကြီးသည် လုပ်ဖော်ကိုင်ဖက် ရဲဘော်အချို့နှင့်အတူ အမရပူရ မဟာဂန္ဓာရုံသို့ ရောက်လာခဲ့၏၊ ဆရာတော်အား လေးစားစွာ ကန်တော့ကြ၏၊ ဆရာတော်က ဗိုလ်ချုပ်ကြီးအား "တိုင်းပြည်အတွက် အလုပ်လုပ်ရာတွင် အရာရာ၌ မေတ္တာရှေ့ထား၍ ဆောင်ရွက်ပါ"ဟု မှာကြား၏၊ အုပ်ချုပ်ရာ၌လည်း ရှေးသူတော်ကောင်း ဘုရားလောင်းတို့၏ ထုံးဟောင်းတို့ကို သာဓကပြု၍ မချွတ်ချော်ရအောင် ကွပ်ကဲပုံ, ယဉ်ကျေးမှု စာရိတ္တများ မပျက်ပြားအောင် ထိန်းသိမ်းပုံတို့ကိုလည်း ဟောပြတော်မူ၏။

ဘုန်းကြီးကိုယ်တိုင်လည်း ယခု ဤကျောင်းတိုက်၌ သာသနာတော်၏ယဉ်ကျေးမှု ဝိနည်း ကိုယ်ကျင့်စာရိတ္တမြင့်မားအောင် ကြိုးစားနေကြောင်းမိန့်တော်မူရာ ဗိုလ်ချုပ်ကြီးကလည်း သူ့အတွေ့အကြုံကို ပြန်လည်လျှောက်ထား၏။

သူငယ်ငယ်က မြင်ခဲ့ရ တွေ့ခဲ့ရသော သာသနာရေးအခြေအနေ, ဝိနည်းလေးစားသော ဆရာတော်ကြီးများ, ထိုဆရာတော်ကြီးများနှင့် လက်ပွန်းတတီး ရင်းနှီးစွာ နေခဲ့ရပုံ, ဆည်းကပ်ခဲ့ရပုံတို့ကို လျှောက်ထားသည်။

## ရှိသမျှနှင့်ကျေနပ်သူ

ဒုတိယအခေါက်တွင် ဗိုလ်ချုပ်ကြီးနေဝင်း, ဇနီးဒေါ်ခင်မေသန်းနှင့် သားသမီးများ, ဗိုလ်မှူးကြီးကျော်စိုး(သာသနာရေး), ဗိုလ်မှူးကြီး သန်းစိန်(လမ်းပန်းဆက်သွယ်ရေး), ဗိုလ်မှူးကြီးသောင်းကြည်(လယ်ယာစိုက်ပျိုးရေး), ဗိုလ်မှူးကြီးချစ်ခင် (လေ), ဗိုလ်မှူးကြီးစိန်မြ (အနောက်မြောက်တိုင်းတာဝန်ခံ), ဗိုလ်မှူးကြီး ဗန်ကူး (စစ်ကိုင်းတိုင်း တာဝန်ခံ), ဦးဘငြိမ် (စီးပွားရေးအကြံပေး)တို့ ဖြစ်ကြ၏။

ဗိုလ်ချုပ်ကြီးမိသားစုက သံဃာ ၁၅ ပါးစာ ဆွမ်း, ဆွမ်းဟင်းနှင့် မုန့်ပဲသရေစာများ လှူဒါန်းကြသည်၊ ဤအခေါက်တွင်လည်း ဗိုလ်ချုပ်ကြီးနှင့်ဆရာတော်တို့သည် ဘာသာ, စာရိတ္တ, ယဉ်ကျေးမှုအကြောင်းတို့ကိုပင် ပြောဆိုဆွေးနွေးကြ၏၊ ဆရာတော်က ရှေးသူတော်ကောင်းတို့လည်း ပညာပါရမီဆည်းပူးကြရင်း တိုင်းပြည်အုပ်ချုပ်ပုံတို့ကို ဟောပြသည်။

ပြန်ခါနီးတွင် ဗိုလ်ချုပ်ကြီးက "ဘာများ အလိုရှိပါသလဲဘုရား"ဟု လျှောက်ထားမေးမြန်းရာ ... ဆရာတော်က "ရှိသမျှကလေးနှင့် ကျေနပ်တတ်တဲ့ ဘုန်းကြီးဆိုတော့ မလိုပါဘူးလေ"ဟူ၍ ပြန်လည်မိန့်ကြားသည်။

မှတ်ချက်။ ။ ဆရာတော်၏ အဖြေစကားသည် သေသေချာချာ စဉ်းစားလျှင် "ပြည့်စုံနေပြီ"ဟု မဆိုပါ၊ "မလိုချင်တော့ပါဘူး"ဟူ၍လည်း တူးတူးခါးခါး မပယ်မြစ်ပါ၊ "ရှိသမျှကလေးနှင့် ကျေနပ်တတ်တဲ့ သူ့အလေ့"ကိုသာ ဖော်ပြလိုက်ခြင်း ဖြစ်ပါသည်၊ အခွင့်အရေးကို တောင်းသည်လည်း မဟုတ်, လှူလာလျှင်လည်း ငြင်းမည့် အဓိပ္ပာယ်မျိုးကို မဆောင်ပါ၊ စင်စစ်သော်ကား တပည့်သံဃာများ ၂၀၀ ကျော်လောက်နှင့် ဆရာတော့်မှာ ဆွမ်း, သင်္ကန်း, ကျောင်း, ဆေး ပစ္စည်းလေးပါး မမျှမတ မပြည့်မစုံ အခြေအနေတွင် ရှိပါသည်၊ သို့တစေလည်း "အခွင့်အရေးပေါ်လာတုန်း လက်မလွှတ်တမ်း ဖမ်းလိုက်မည်"ဟူသောဝါဒ ဘယ်သောအခါကမျှ မရှိခဲ့သော ဆရာတော်တစ်ပါး ဖြစ်ပေ၏။

## လှာဖိနပ်ကလေးတစ်ရံ တောင်းရန်ဝန်လေး

ဆရာတော်က စာချရင်းသော်လည်းကောင်း, နံနက်ခင်း ဩဝါဒပေးရာ၌သော်လည်းကောင်း အကြောင်းစပ်လာတိုင်း ရှေးသူတော်ကောင်းတို့၏ အတောင်းအရမ်း ချုပ်တည်းပုံကို ပုံပြင်လို ပြောပြောပြတတ်၏၊ * ရှေးတုန်းက ဘုရားလောင်းရသေ့ကြီးသည် ဟိမဝန္တာမှာနေပြီး သစ်သီးသစ်ရွက်ကို စားသောက်နေသည်၊ မိုးလအခါနီးလျှင် ချဉ်တို့ဆားတို့ မှီဝဲဖို့ရာ မြို့ရွာအနီးသို့ ချဉ်းကပ်လာတတ်၏၊ ဘုရင့်ဉယျာဉ်၌ မိုးလေးလပတ်လုံးနေသည်၊ ဘုရင်ကြီးက ကြည်ညိုလှ၍ ဆွမ်းကွမ်း အမြဲပြုစု၏၊ မိုးကျွတ်၍ ဟိမဝန္တာသို့ ပြန်ခါနီးတွင် မင်းကြီးက "ဘာများ အလိုရှိပါသလဲ ဘုရား, အမိန့်ရှိတော်မူပါ" ဟု လျှောက်တတ်သည်၊ တောထဲတွင် စားသောက်နေထိုင်ရေး ချမ်းချမ်းသာသာဖြစ်ရန် စီမံပေးလို၍ လျှောက်ခြင်း ဖြစ်၏။

ရသေ့ကြီးက တစ်စုံတစ်ခု အမိန့်ရှိမည့်ဟန်မျိုးကို ဖော်ပြ၍ ပါးစပ်ကို ပြင်၏၊ "မိန့်တော်မူပါဘုရား"ဟု လျှောက်ထား၍ ငံ့လင့်နေစဉ်တွင် "မပြောတော့ပါဘူးမင်းကြီးရာ"ဟု ဆိုကာ ဟိမဝန္တာသို့ ပြန်သွားလေသည်။

နောက်တစ်နှစ် မိုးကျခါနီးတွင် မြို့ရွာအနီးသို့ ရောက်လာပြန်၏၊ တစ်မိုးတွင်းလုံး ပြုစုနေပြီးနောက် ပြန်ခါနီးတွင် "ဘာများ အလိုရှိပါသလဲဘုရား"ဟု မင်းကြီးက လျှောက်ပြန်သည်၊ တစ်စုံတစ်ခု မိန့်မည် ပြုပြီးမှ "မပြောတော့ပါဘူး မင်းကြီးရာ"ဟု ဆိုကာ ဟိမဝန္တာသို့ ပြန်သွားလေသည်။

ထို့နောက် တတိယနှစ် ပြန်ခါနီးတွင်လည်း မင်းကြီးက လျှောက်ပြန်၏၊ အနားက လူတွေရှေ့မှာ ပြောရမှာ ရှက်သလို ဖြစ်နေသည့် အခြေအနေကို အကဲခတ်မိသော မင်းကြီးက လူတွေကို တော်ရာ၌ သွား၍ ဖယ်ရှားနေကြရန် အမိန့်ပေးသည်၊ လူသူ လေးပါး ရှင်းသောအခါမှ "မိန့်တော်မူပါဘုရား"ဟု လျှောက်ထားပြန်ရာ မိန့်မည်ကဲ့သို့ ပြုပြီးမှ "မပြောတော့ပါဘူး မင်းကြီးရာ"ဟု ဆိုကာ ဟိမဝန္တာသို့ ပြန်သွားပြန်လေသည်။

ထို့နောက်တစ်ဖန် စတုတ္ထနှစ် ပြန်ခါနီးတွင်ကား ဘုရင်ကြီးက စဉ်းစားမိ၏၊ "ယမန်နှစ်က လူတွေရှေ့မှာ မပြောဝံ့တာကို ထောက်လျှင် ဧကန္တ မိဖုရားကြီးကို လိုချင်တာ ဖြစ်မည်၊ အကယ်၍ မိဖုရားကြီးကို အလိုရှိလျှင်လည်း လှူမည်ဟု ဆုံးဖြတ်ကာ "အရှင်ဘုရား မိဖုရားကြီးကို အလိုရှိလျှင်လည်း လှူပါမည်"ဟု လျှောက်တော့၏၊ "မဟုတ်သေးပါဘူး မင်းကြီးရာ"ဟု ပြောကာ ပြန်သွားပြန်လေသည်။

ပဉ္စမနှစ်တွင်ကား "တိုင်းပြည်တစ်ဝက် လှူပါမည်"ဟု လျှောက်၏၊ လက်မခံ မမိန့်မမြွက်ဘဲ ပြန်သွားသည်၊ ဆဋ္ဌမနှစ်တွင် "တစ်ဝက်တည်း ဖြစ်၍ နည်းလို့ လက်မခံခြင်း ဖြစ်မည်၊ အကုန်လှူမည်ဟု ဆုံးဖြတ်ကာ "အရှင်ဘုရား...တစ်တိုင်းပြည်လုံး ပေးလှူပါမည်"ဟု လျှောက်ပြန်သည်၊ သို့တစေလည်း မမိန့်မြွက်၊ လည်ချောင်းမှ စကားလုံးတွေ မထွက်သလို ဖြစ်ကာ ပြန်သွားပြန်လေသည်။

သတ္တမနှစ်ပြန်ခါနီးတွင်ကား ဘုရင်ကြီးက "ဒီနှစ်တော့ အလိုရှိတာကို မပြောလျှင် အရှင်ဘုရား မပြန်ရဘူး၊ ပြောရမယ်၊ တပည့်တော်ရဲ့ တိုင်းပြည်တစ်ခုလုံးမက တခြား တိုင်းပြည်တွေကိုပါ ရချင်တယ် ဆိုရင်တောင် တပည့်တော် တိုက်ခိုက် သိမ်းပိုက် ပေးမယ်၊ ဒီနှစ်တော့ ပြောကို ပြောရမယ်ဘုရား"ဟု အကြပ်ကိုင်တော့၏။

ထိုအခါ ရသေ့ကြီးက လူသူ လေးပါးကို အရှင်း ခိုင်းပြန်သည်၊ လူတွေ အကုန်ရှင်း၍ ဘုရင်ကြီးနှင့် ရသေ့ကြီး နှစ်ပါးတည်း ရှိသောအခါမှ သူအလိုရှိသော ဆန္ဒကို ဖွင့်ဟပါတော့သည်၊ သူ့ဆန္ဒကား "လွှာဖိနပ်ကလေး တစ်ရံလောက် လှူပါ"ဟူ၍ ဖြစ်သတည်း။

## တောင်းတတ်သူနှင့်မပေးသူ

ရသေ့ကြီးမှာ ဟိမဝန္တာတောင်တန်းတစ်လျှောက်တွင် သစ်သီးသစ်ရွက် အဆွတ်အခူး လှည့်လည်သောအခါ ခြေဖဝါးများ နာလွန်း၍၊ ဆူးငြောင့် ခလုတ်များ တွေ့တတ်လွန်း၍ သားရေဖြင့်ပြုလုပ်အပ်သော တစ်လွှာသာရှိသော အညံ့စား ဖိနပ်ကလေးမျိုးကို အလိုရှိနေခြင်း ဖြစ်လေသည်၊ သို့ရာတွင် သူတစ်ပါးထံ တောင်းရမ်းဖို့ရန် ဝန်လေး၍ ဤမျှ ဖင့်နွှေးနေခြင်း ဖြစ်သတတ်။

ဆရာတော်က ဇာတ်တော်လာ ဤဝတ္ထုကြောင်းကလေးကို မကြာ မကြာ ပြောပြတတ်၍ ဒါယကာ ဒါယိကာမများထံ အတောင်းအရမ်း မထူဖို့ တပည့်တို့အား ဆုံးမတတ်လေသည်၊ ဤရသေ့ကြီးကို အတုယူဖို့ရန် နမူနာပြတော်မူတတ်၏၊ ဘာ့ကြောင့်နည်း၊ တောင်းတတ်သူသည် ငိုတဲ့သူနှင့်တူ၍ မပေးသူသည်လည်း ငိုတဲ့သူနှင့် တူသောကြောင့် ဖြစ်လေသည်။

### တောင်းတတ်သူ

**တောင်းတတ်သူသည်, ငိုသောမည်၏၊**
**မကြည်မဖြူ, မပေးသူလည်း,**
**ထို့တူ ခေါ်လေ့, ပြန်၍ ငိုသည်,**
**သူပင်မည်၏။**
**စိတ်ကြည်မနူး, နှစ်ဦးနှစ်ဝ,**
**တူအမျှပင်, ဒေါသမလွတ်,**
**ဖြစ်သတတ်ကြောင့်,**
**သူမြတ်သူလျှာ, သူတော်စွာတို့,**
**ဗာရာပြည့်ရှင်, ဒကာစင်လျက်,**
**လက်တွင်ကိုင်ယူ, တောသလူရှက်,**

**ထီးတစ်လက်နှင့်,**
**သက်သက်တစ်ထပ်, လွှာဖိနပ်ဖြူ,**
**လိုအပ်လျက်ကဲ့, ခံတွင်းမဲ့သို့,**
**ဆယ့်နှစ်နှစ်ကျော်, တိုင်အောင်သော်လည်း,**
**နှုတ်တော်မလှစ်, မတောင်းဖြစ်တည့်။**
**(မန်လည်ဆရာတော်၏မဃဒေဝ)**

အချို့ ဒါယကာ ဒါယိကာများက "ပစ္စည်းလေးပါး အလိုရှိသောအခါ တောင်းတော်မူပါဘုရား"ဟု ဖိတ်မန်ထားကြသော်လည်း မိမိအလိုရှိသောအခိုက်၌ သူတို့မှာ အဆင်ပြေမှု ရှိ-မရှိ မသိနိုင်၊ ကြည်ကြည်ဖြူဖြူ ဖြစ်-မဖြစ် မသိနိုင်၊ အလွန်သတိထားရမည်ဖြစ်၏၊ မိမိက အလိုရှိ၍ တောင်းရမ်းခိုက်တွင် အချို့မှာ လင်မယားချင်း ရန်ဖြစ်ထားသဖြင့် စိတ်မကြည်မသာ ဖြစ်နေချိန်နှင့်ကြုံလျှင် ဒုက္ခနှင့်မဆုံရ ပေလော။

## ဒါတွေကြောင့် အထင်သေးခံရ

တစ်နေရာတွင် ဒါယကာတစ်ဦးက "ကားအလိုရှိသောအခါ တောင်းတော်မူပါဘုရား"ဟု ကြည်ညိုသဒ္ဓါတရားပွားချိန်က ဖိတ်မန်ထားခဲ့၏။

တစ်နေ့တွင် အဖိတ်ခံရသော ဆရာတော်က ကျောင်းသားလေးမှ တစ်ဆင့် ကားအလိုရှိကြောင်း သွား၍ အပြောခိုင်း သောအခါ "ဘုန်းကြီးတွေက တယ်ခက်သကိုး, အလိုက် မသိ, အခြေအနေ မသိ, သူတို့ လိုချင်တာပဲ သိတယ်"ဟု ညည်းတွားလေသတတ်။

ဤကဲ့သို့သော အဖြစ်အပျက်ကလေးမျိုးကို ပြောပြောပြ၍ ဆရာတော်က..."ဒီနည်း ဒီပုံတွေကြောင့် တို့သာသနာ အထင်သေးခံနေရတာပဲ၊ မင်းတို့တွေ ဆင်ခြင်ပါ၊ သာသနာကို အထင်သေးစရာ ဖြစ်အောင် မလုပ်ကြပါနှင့်၊ သာသနာတော်ကြီးက မြင့်မြတ်ပါတယ်၊ ထမ်းဆောင်နေတဲ့ပုဂ္ဂိုလ်တွေက ဟန်မကျလို့ အထင်သေးခံနေကြရတာပါ" ဟု မိန့်၏။

ဆဋ္ဌသင်္ဂါယနာခေတ်တုန်းကလည်း "ဆရာတော်ကြီးတွေ တချို့ဟာ ကိုယ့်တပည့် ရဟန်းလူထွက်ကလေးတွေ အလုပ်ရအောင်လို့တဲ့ လူရုံးတွေမှာ အရာရှိဒကာတွေရဲ့ စားပွဲရှေ့မှာ သွားပြီး အသနားခံ, ကူပြီး မေတ္တာရပ်ခံပေးကြသတဲ့။

ဒီတော့ အရာရှိတွေက ဆရာတော်ကြီးတွေကလည်း ကိုယ့် သိက္ခာ သမာဓိနှင့် ကလေ့ရရ နေကြတာ မဟုတ်ဘဲကိုး"လို့ ညည်းကြသတဲ့၊ အဲဒီ အရာရှိတွေက ပြန် လျှောက်လို့ သိရတယ်။

"ကဲ-ဘယ်လောက် အရုပ်ဆိုးကြသလဲလို့, ဘုရားမျက်နှာကိုမှ မထောက်" ဤသို့ စသည်ဖြင့် ပြောပြကာ တောင်းရမ်းမှု အရေး၌ ဝေးဝေးက ရှောင်ရန် ဆရာတော်က ဩဝါဒပေး တတ်လေသည်။

# မြဟ္မစိုရ်တရားထွန်းကားရေးဩဝါဒ

## တစ်ဦးနှင့်တစ်ဦး စာနာတတ်ဖို့

တတိယအခေါက်တွင် ဗိုလ်ချုပ်ကြီးနေဝင်း, ဇနီးဒေါ်ခင်မေသန်း, ဗိုလ်မှူးကြီးသန်းစိန်(လမ်းပန်းဆက်သွယ်ရေး), ဗိုလ်မှူးကြီးသောင်းကြည် (လယ်ယာစိုက်ပျိုးရေး), ဗိုလ်မှူးကြီးမောင်ရွှေ (စက်မှုလက်မှု) တို့ ပါကြ၏၊ ဗိုလ်ချုပ်ကြီးမိသားစုက သံဃာ ၁၅ ပါးစာ ဆွမ်း, ဆွမ်းဟင်းများ, မုန့်သေတ္တာများနှင့် ကျောက်ရေစစ် ၁ လုံး လှူဒါန်းသည်၊ ထိုအခါ ဆရာတော်က "ယခုလို ဆွမ်း ၁၅ ပါးစာ လှူမည့်အစား ကျောင်းမှာရှိတဲ့ သံဃာ ၂၀၀ လုံး ဝေခြမ်းလို့ရတဲ့ အရာမျိုး, ဥပမာ-ပဲလှော်တို့လို အရာမျိုးဆိုရင် ပိုကောင်းတယ်၊ ကုန်ကျစရိတ်လည်း ဒါပဲ၊ ဒီအထက် မပိုစေနှင့်၊ အားလုံး ဝေလို့ ခြမ်းလို့ ရတယ်"ဟု မိန့်တော်မူရာ ဗိုလ်ချုပ်ကြီးက အလွန်သဘောကျ၏။

"ဟုတ်တယ်ဘုရား... တပည့်တော်တို့တပ်ထဲမှာလည်း ဒီလိုပဲ ရဲဘော်တွေဟာ ကောင်းတာ ဆိုးတာ

အသားထား, ရှိသမျှကို ဝေဝေမျှမျှ ဘုံဘုံပြားပြား ခွဲဝေစားကြရတာ အလွန်စိတ်ချမ်းသာတယ်၊ သွေးစည်းမှုလည်း ရှိတယ်ဘုရား"ဟု ထောက်ခံလျှောက်ထားသည်၊ ထို့နောက်လည်း အာလာပ သလ္လာပ အပြန်အလှန် ဝမ်းမြောက်ဝမ်းသာ ရင်းရင်းနှီးနှီး ပြောဆိုလျှောက်ထားကြ၏၊ လာခဲ့သောအကြိမ်မှာ သုံးခေါက်မျှပင် ရှိပြီဖြစ်၍ ရင်းနှီးသောအဆင့်သို့ ရောက်လေပြီ။

ထို့နောက် ဆရာတော်က "လူတွေဟာ အားလုံးလိုလိုပဲ ဗြဟ္မစိုရ်တရား ခေါင်းပါးလွန်းနေကြတယ်၊ **မေတ္တာ ကရုဏာ မုဒိတာ ဥပေက္ခာ**ဆိုတဲ့ ဗြဟ္မစိုရ်တရားတွေ ထွန်းကားအောင် လုပ်နိုင်မှ ကောင်းကြမှာပဲ"ဟုမိန့်မြွက်တော်မူပြီးလျှင် ရှေးသူတော်ကောင်းတို့ ကျင့်သုံးခဲ့ပုံ ဒုမ္မေဓဇာတ်ကိုဟောပြတော်မူသည်။

## စိတ်ဝင်စားဖွယ် ဒုမ္မေဓဇာတ်တော်
## ရာဇပရိယာယ် တန်ဆာခြယ်၍

*"ရှေးတုန်းက ဗြဟ္မဒတ်မင်းကြီးလက်ထက်မှာ တိုင်းသူပြည်သားတွေက ဗလိနတ်စာ ပူဇော်တဲ့အလေ့ ပြုလုပ်ခဲ့ကြ, ထွန်းကားခဲ့ကြတယ်၊ ဆိတ် သိုး ကြက် ဝက် ဘဲ ငှက်စတဲ့ အကောင်အလျောင်တွေကို သတ်ပြီး သွေးသံရဲရဲနှင့် နတ်ပူဇော်လေ့ရှိကြတယ်၊ ဒါကို အိမ်ရှေ့မင်း ဥပရာဇာဘုရားလောင်းက အဲဒီအကြောင်းတွေကို မြင်နေရ သိနေရလို့ အလွန်အကဲ စိတ်မချမ်းမသာ ဖြစ်နေရသတဲ့၊ "လူတွေဟာ အကုသိုလ် ဒုစရိုက်နယ်အတွင်း သက်ဆင်း ဝင်ရောက်နေကြပါတကား, ငါ အထွတ်အထိပ် ရောက်မှ ပြုပြင်ရချေတော့မည်" လို့ အောက်မေ့ထားသတဲ့။

အဲဒီနောက် အိမ်ရှေ့ဥပရာဇာဟာ တစ်နေ့တွင် မြို့ပြင်ထွက်ပြီး သစ်ပင်ကြီးတစ်ပင်သို့ ချဉ်းကပ်, ရေစင်သွန်းဖြန်း, ပန်းတို့ဖြင့် ပူဇော်, ပါးစပ်ကလည်း တိုးတိုး တိုးတိုးနှင့် ဆုတောင်းသတဲ့၊ ဒီနည်းအတိုင်း မကြာ မကြာ မြို့ပြင်ထွက်, သစ်ပင်ကြီးကို သွားသွား ပူဇော်သတဲ့၊ ထို့နောက် ဘုရင်ကြီး သက်တော်ကြီးလို့ နတ်ရွာစံတဲ့အခါ ဥပရာဇာဟာ ထီးနန်းကို ရတယ်၊ ထီးနန်းရလို့ မင်းဖြစ်တယ်ဆိုရင်ပဲ အမတ်ကြီးများ, မင်းဆရာပုဏ္ဏားများ, သူဌေးသူကြွယ်များကို နန်းရင်ပြင်သို့ စုရုံးခေါ်ပြီး ပြောသတဲ့၊ "အကျွန်ုပ် အခုလို မင်းအဖြစ်သို့ ရောက်ရတာဟာ မြို့ပြင်ဘက်က သစ်ပင်ကြီးကို ပူဇော်လို့ ရုက္ခစိုးနတ်ကြီးက မ,စလို့ဖြစ်ရတာ၊ မင်းဖြစ်ရင် လူပေါင်းတစ်ထောင်ရဲ့ နှလုံးသားဖြင့် ပူဇော်ပါ့မယ်လို့ ကတိခံခဲ့တာ, အခု ပူဇော်ရတော့မယ်, စီစဉ်ပေးကြ"ဟု အမိန့်ချသတဲ့။

"ဘယ်လို စီစဉ်ရပါ့မလဲ"လို့ ပြန်ပြီးသံတော်ဦးတင်တော့ "ကျွန်ုပ်ရဲ့တိုင်းပြည်မှာ ငါးပါးသီလ မလုံတဲ့သူတွေ, မေတ္တာ ကရုဏာခေါင်းပါး ဒုစရိုက်အကုသိုလ်များတဲ့သူတွေ ဖမ်းစေ, အဲလို ပုဂ္ဂိုလ်မျိုး၏ နှလုံးသားဖြင့် ပူဇော်မည်၊ အဲလို ပုဂ္ဂိုလ်တွေ အိမ်ပြင်ထွက်ခဲ့ကြ"လို့ တိုင်းပြည်အတွင်း စည်လည်ခိုင်းသတဲ့၊ စည်လည်တော့ ဘယ်ထွက်ကြမှာလဲ, ကုပ်နေကြတာပေါ့။

အဲဒီအချိန်ကစပြီး တစ်တိုင်းပြည်လုံး ငါပါးသီလတွေ လုံလိုက်ကြတာ မပြောပါနှင့်တော့၊ ဖမ်းတော့မှာကိုး၊ ဒုစရိုက်တွေ ရှောင်ရှားကြလို့ အကုသိုလ်တွေ တိတ်ဆိတ်သွားပြီး အားလုံးချမ်းမြေ့ကုန်ကြရပါသတဲ့၊ အဲဒီအချိန်က စပြီး တစ်တိုင်းပြည်လုံး ကိုယ်ကျင့်သီလတွေနှင့်ကိုယ်စီထိန်းကြလို့ အားလုံးပဲ သုဂတိဘဝကို ရကြသတဲ့။

ရှေးက ပညာရှိတွေဟာ အဲလိုပဲ ပရိယာယ်နှင့် တိုင်းပြည်ကို ပြုပြင်ခဲ့ရတာတွေ ရှိပါတယ်၊ အာဏာရှိသူတွေဟာ ဘာမဆို ပြုပြင်လို့ ရနိုင်တဲ့ အခွင့်အလမ်းတွေ များစွာ ရှိပါတယ်" စသည်ဖြင့် မိန့်မြွက်တော်မူ၏။

ထို့နောက် ဗိုလ်ချုပ်ကြီးတို့ အဖွဲ့လည်း အနည်းငယ် ပြောဆို လျှောက်ထားပြီးနောက် ပြန်လည်ထွက်ခွာသွားကြသည်။

---

* ကေနိပါတ် ဇာတ်ပါဠိ, နှာ-၁၂၊ အဋ္ဌကထာ-၂၇၆။

# ပါမောက္ခနှင့်ဆရာတော် အရှင်ဇနကာဘိဝံသ

## ဆရာကြီးဦးဖေမောင်တင်



ဆရာကြီးဦးဖေမောင်တင်

ရန်ကုန်တက္ကသိုလ် ကျောင်းအုပ်ဆရာကြီး... ဦးဖေမောင်တင်သည် ပါဠိဘာသာဖြင့် တည်ရှိသော နာမည်ကျော် ဝိသုဒ္ဓိမဂ် ကျမ်းကြီးကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုခဲ့၍ ၁၉၂၃ ခုနှစ်က လန်ဒန်ပါဠိအသင်းကြီးမှ ထုတ်ဝေခဲ့၏၊ တစ်ဖန် ၁၉၂၀-၂၁ ခုနှစ်ကလည်း အဋ္ဌသာလိနီအဋ္ဌကထာကြီးကို အင်္ဂလိပ်လို ပြန်ဆိုခဲ့၍ လန်ဒန်ပါဠိအသင်းကြီးမှ ထုတ်ဝေခဲ့သည်၊ ဆရာကြီး၏ အမြော်အမြင်နှင့် ပညာစွမ်းကို ချီးမွမ်းခန်းဖွင့်ရန်ပင် မလိုတော့ပေ၊ လူတိုင်း သိကြ၏၊ ထို့ကြောင့်ပင် မြန်မာအမျိုးသားထဲမှ ပထမဦးဆုံး ပါမောက္ခဖြစ်ခဲ့၏၊ ၁၉၂၁ ခုနှစ်မှာ အသက် ၂၄ နှစ်အရွယ်ကပင် ပါဠိပါမောက္ခအဖြစ် ခန့်အပ်ခြင်း ခံရသည်။

ထို့နောက် ဆရာကြီး၏ အသိဉာဏ် အမြော်အမြင်, ဆရာကြီး၏ လုံ့လဝီရိယ, ဆရာကြီး၏ စည်းစနစ်ရှိမှုတို့ကြောင့် ရန်ကုန်တက္ကသိုလ် အရှေ့တိုင်းပညာရပ်များဌာနတွင် ပါဠိစာပေနှင့် မြန်မာစာပေဌာနတွင် ပါမောက္ခအဖြစ် ခန့်အပ်ခြင်း ခံရသည်၊ ထို့နောက် တစ်ဆင့်တက်၍ "ရန်ကုန်တက္ကသိုလ်ကျောင်းအုပ်ကြီး" ဖြစ်ခဲ့ပြန်လေသည်၊ ဤပညာရပ်များဖြင့် ဆရာကြီးသည် တိုင်းပြည်နှင့်လူမျိုး၏ အကျိုးကို သယ်ပိုးဆောင်ရွက်ခဲ့သည်။

### အနတ္တတရား၏စွမ်းအားသတ္တိ

တစ်နေ့သောအခါ ဆရာကြီးသည် တပည့်တစ်ဦးဖြစ်သော (ထိုအချိန်က မြန်မာစာပါမောက္ခဖြစ်နေသော) ဦးတင်အေးတို့ အိမ်ဘက်သို့ ခြေဦးလှည့်ခဲ့၏၊ ဦးတင်အေးတို့ မိသားစုမှာ ဆရာတော်အရှင် ဇနကာဘိဝံသ ဟောကြားသော အနတ္တလက္ခဏသုတ်တရားတော်တိပ်ခွေကို ဖွင့်၍ စိတ်လက်အေးချမ်းစွာဖြင့် နာယူနေကြသည်။

ထိုအခိုက် ဆရာကြီး ဦးဖေမောင်တင် ရောက်လာရာ ဦးတင်အေးက တိပ်ရီကော်ဒါကို ပိတ်မည်ပြု၏၊ ဆရာကြီးက "မပိတ်ပါနှင့်"ဟု တား၍ ဆက်လက် နားကြားနေသည်၊ ဆရာကြီးသည်... စကား မပြောဘဲ စူးစူးစိုက်စိုက် နာယူနေ၏၊ ဦးတင်အေးတို့ မိသားစုက အံ့အားသင့်နေကြရသည်။

အဘယ့်ကြောင့်နည်း?... ဆရာကြီးသည် ဗုဒ္ဓဘာသာဝင် မဟုတ်ဘဲလျက် ဗုဒ္ဓသာဝကတစ်ပါး၏ ဟောကြားထားသော တရားတို့ကို နာယူနေသောကြောင့် ဖြစ်ပေသည်၊ ထူးဆန်းပါ၏၊ သဗ္ဗညုတဘုရားရှင်၏ တရားတော်တို့သည် မည်သည့်ဘာသာဝင်မဆို ပညာရှိတို့၏ နှလုံးသားကို ထိထိခိုက်ခိုက် စိုက်၍ရောက်အောင် သက်ဝင်စေနိုင်၏၊ ယခု သက်ဝင်နေပြီ မဟုတ်ပါလော။

## အနတ္တတရားက ဆက်သွယ်ပေး

စင်စစ်ကား "ဆရာတော် အရှင်ဇနကာဘိဝံသ နှင့်တွေ့ချင်သည်"ဆိုသည်ထက် "ဟောပြအပ်သော အနတ္တတရားနှင့် တွေ့ချင်သည်"ဆိုသည်က ပို၍ မှန်ပါလိမ့်မည်၊ ယခုအခါ ဗုဒ္ဓ၏ အနတ္တတရားတော်တွေက ဆရာကြီး ဦးဖေမောင်တင်ကို လက်ယပ်ခေါ်နေပြီ၊ ဆရာကြီး ဦးဖေမောင်တင်နှင့်ဆရာတော် အရှင်ဇနကာဘိဝံသကို ဆက်သွယ်ပေးနေကြလေပြီ၊ ဘယ်သောအခါတွင် တွေ့ဆုံကြရလေမည်နည်း။?

တစ်ခါတလေ ဤသို့ပင်လျှင် ထူးထူးဆန်းဆန်း ဖြစ်တတ်ပါ၏၊ ဗုဒ္ဓ၏ တရားတော်များသည် စဉ်းစားဉာဏ်ရှိသူတို့ကို ဖိတ်ခေါ်၏၊ ဝေဖန်တတ်သူတို့ကို ကြိုဆို၏၊ လက်တွေ့ကျကျ လေ့လာသူတို့ကို ခွင့်ပြုပြီးလျှင် အပြည့်အဝ လိုက်နာကျင့်သုံးသူတို့ကို လက်ခံတတ်လေသည်၊ ဤနည်းအားဖြင့် စောင့်စားနေလေ၏။

ဆရာကြီး ယခု နာယူမှတ်သားနေသည်မှာ... ပုဂ္ဂိုလ်၏အသံကို နာယူနေသည်မဟုတ်ပါ၊ တရားကို, တရား၏ အဓိပ္ပာယ်ကိုသာ နာယူနေခြင်းဖြစ်ပါ၏၊ ထို့ကြောင့် တရားတိပ်ခွေဆုံးသောအခါ ဆရာကြီးက "အခု ဟောပြောနေတဲ့ပုဂ္ဂိုလ်ဟာ ဘယ်ကလဲ? ဘယ်သူလဲ?"ဟု မေးတော့၏။

ဦးတင်အေးတို့ မိသားစုက "ဒါဟာ ဆရာတော် အရှင်ဇနကာဘိဝံသလို့ ခေါ်ပါတယ်၊ မန္တလေး အမရပူရမြို့မှာ သီတင်းသုံးပါတယ်"ဟု ဖြေသောအခါ "ဒီဆရာတော်ထံ ဆရာ သွားချင်တယ်, ဘယ်လို သွားရမလဲ, ဘယ်လို တွေ့ရမလဲ"ဟု ဆရာကြီးက မေးနေတော့၏။

ဆရာကြီး ဦးဖေမောင်တင်သည် ဆရာတော် အရှင်ဇနကာဘိဝံသနှင့်တွေ့လိုသောဆန္ဒ ပြင်းပြနေလေပြီ။

## အမှန်တရားကို ရှာဖွေနေခဲ့

မကြာပါလေပြီ၊ ၁၃၂၈ ခု တန်ခူးလ (၁၉၆၆ ခု ဧပြီလ)ထဲတွင် ဖြစ်၏၊ မန္တလေးသို့သွားရန် ကိစ္စတစ်ခု ပေါ်လာသည်၊ "ဟုတ်ပြီ, ဟုတ်ပြီ, မန္တလေးကို သွားရမည်၊ မန္တလေးကို ရောက်လျှင် မိမိသွားချင်နေသော အနတ္တအကြောင်းကို ဟောသော ဆရာတော့်ထံ ရောက်အောင် သွားမည်"ဟု ဆရာကြီး စိတ်ထဲတွင် ဆုံးဖြတ်ထားလိုက်၏၊ သို့နှင့် မန္တလေး ဝိဇ္ဇာသိပ္ပံတက္ကသိုလ်သို့ ရောက်လာခဲ့လေသည်၊ ဆောင်ရွက်ဖွယ်ကိစ္စတို့ကို ဆောင်ရွက်ပြီးသည်နှင့် ဆရာကြီးသည် အမရပူရ မဟာဂန္ဓာရုံဆရာတော်ထံသို့ ပို့ပေးကြရန် တပည့်စို့အား ပြောကြားတော့၏၊ ဆရာကြီး၏ ဘာသာရေးခံယူချက်တို့ကို သိထားကြသော တပည့်များကလည်း အံ့အားသင့်နေကြ၏၊ "ဆရာကြီး ဘယ်လို ဖြစ်လာတာပါလိမ့်"ဟု တွေဝေစဉ်းစားနေကြသည်၊ သို့သော်လည်း ဆရာကြီး၏ တောင်းဆိုချက်ကို မလွှန်ဆန်နိုင်ကြသဖြင့် အရိပ်အခြည်ကို ကြည့်ကာ လိုက်၍ ပို့ကြရတော့သည်။

ဆရာတော့်ထံသို့ ရောက်သည်ဆိုလျှင်ပဲ ဆရာကြီးက...

"ဆရာတော် ဟောထားတဲ့ အနတ္တတရားကို ရန်ကုန်မှာ တပည့်တော် နာခဲ့ရတယ်ဘုရား၊ အဲဒီကတည်းက ဆရာတော်နှင့် တွေ့ချင်နေတာ... ဒါ့ကြောင့် အခု လာခဲ့ပါတယ်ဘုရား"ဟု လျှောက်သည်။

ဆရာတော်အရှင်ဇနကာဘိဝံသသည် ဆရာကြီး ဦးဖေမောင်တင်နှင့် တစ်ခါမျှ မတွေ့ဘူးချေ၊ နာမည်ကိုသာ ကြားဖူးနေသည်၊ ယခု ရောက်လာသူကား မည်သူမည်ဝါဟု တပ်အပ် မသိသေးသော်လည်း ရည်မွန် ယဉ်ကျေးသော ဥပါသကာကြီးတစ်ယောက် ဟူ၍ကား သတိပြုမိလိုက်သည်၊ ထို့ကြောင့် ဆရာတော်က...

"ကောင်းပါတယ်, အခုလိုတွေ့ရတာ ဘုန်းကြီး ဟောထားတဲ့တရားဆိုပေမယ့် တကယ်တော့ ဗုဒ္ဓမြတ်စွာ ဟောထားတာပါ၊ ဘုန်းကြီးက တစ်ဆင့်

"ဆရာတော်ဘုရား ... ဒီပုဂ္ဂိုလ်ကြီးက တခြားသူ မဟုတ်ပါ၊ ရန်ကုန်တက္ကသိုလ် ကျောင်းအုပ်ကြီးဟောင်း ဦးဖေမောင်တင်ပါ ဘုရား" ဟု ဆရာတော်နှင့် မိတ်ဆက်ပေးနိုင်တော့၏၊ ထိုအခါ ဆရာတော်ကလည်း ပို၍ ဝမ်းမြောက်သွားရတော့သည်။ နားလည်အောင် ရှင်းပြခြင်းပါ"ဟု အတ္တကုံသန မပါသော အပြောမျိုးဖြင့် မိန့်လိုက်ရာ ဆရာကြီးက ပို၍ သဘောကျသွားတော့၏၊ ဤအချိန်တွင်မှ နောက်က လိုက်ပို့ကြသော မန္တလေး ဝိဇ္ဇာသိပ္ပံတက္ကသိုလ်မှ ဆရာများ ကထိကများက ကြားဝင်နိုင်တော့၏။

## တစ်ဦးနှင့်တစ်ဦး ယခုမှ တွေ့ဆုံကြ

"ဪ...တက္ကသိုလ်ကျောင်းအုပ်ကြီး ဆရာကြီး ဦးဖေမောင်တင် ဆိုတာကို၊ နာမည်တော့ ကြားဖူးနေပါတယ်၊ လူချင်းသာ မတွေ့ရသေးတာပါ" ဤသို့ အပြန်အလှန် ပြောဆိုကြပြီးလျှင် ဆရာကြီးနှင့်ဆရာတော်တို့ ရင်းနှီးမှု ရသွားကြလေသည်၊ ထို့နောက် ဆရာကြီး ဦးဖေမောင်တင်က...

"ဒီလိုဘုရား, အကြောင်းရင်းက ဟိုးတစ်ချိန်တုန်းက အမေရိကန်ကို တပည့်တော်သွားပြီး တရားဟောရဖူးတယ် ဘုရား, အဲဒီတုန်းက အနတ္တအကြောင်းကို ဝိုင်းပြီး မေးကြလို့ သူတို့ ကျေနပ်လောက်အောင် တပည့်တော် မဖြေနိုင်ခဲ့ဘူးဘုရား၊ အဲဒီကတည်းက အနတ္တအကြောင်းကို လေ့လာပြီး စိတ်ဝင်စားနေခဲ့တာ၊ မကြာခင်က အရှင်ဘုရား ဟောထားတဲ့ တိပ်ခွေကို နာရတော့ တပည့်တော် ကျေနပ်တယ်ဘုရား၊ အဓတော်ကလေး အားရတယ်၊ ဒါကြောင့် ကျယ်ကျယ်ပြန့်ပြန့် သိချင်လို့ အခုလို လာခဲ့ရတာပဲဘုရား။"

ဤသို့လျှင် ဆရာကြီးသည် မထိမ်မချန် ရိုးသားစွာ ဝန်ခံလျှောက်ထားလေ၏၊ ဆရာတော်ကလည်း ရိုးသားဖြောင့်မတ်စွာ ဝန်ခံသည်ကို ကျေနပ်တော်မူ၏။

ထို့နောက် ဆရာတော်က "ဟုတ်ပါတယ် ဒကာကြီး, ဒီအနတ္တအကြောင်းအရာတွေက နက်လည်း နက်တယ်, ခက်လည်း ခက်တယ်, သိမ်လည်း သိမ်မွေ့တယ်, ကျယ်လည်း ကျယ်တယ်, သိလည်း သိနိုင်ခဲပါတယ်"ဟု မိန့်၍ အနတ္တအကြောင်းကို စိတ်ရှည်လက်ရှည် ရှင်းပြတော်မူသည်။

ဆရာတော်၏ ရှင်းပြချက်များမှာ စိတ်ဝင်စားဖွယ် ကောင်းလှ၍ အားလုံးသိထိုက်သောကြောင့် ဤနေရာတွင် ဖော်ပြလိုက်ပါသည်။

# အနတ္တတရားဟောကြားဆွေးနွေးပွဲ

## အတ္တသဘော ဦးစွာပြောကြစို့

"ဒီလို ဒကာကြီးရဲ့, အနတ္တအကြောင်းကို မပြောမီ အတ္တအကြောင်းကို ဦးစွာပထမ ပြောကြဦးစို့လား၊ အတ္တသဘောကို ပထမရှင်းပြလိုက်ဦးမှ အနတ္တကို ပိုပြီး သဘောပေါက် လွယ်ပါလိမ့်မယ်၊ အတ္တနှင့် ပတ်သက်လို့ အတ္တ၏ ပုံသဏ္ဌာန်, အတ္တရဲ့တည်ရာ, အတ္တရဲ့နာမည်, အတ္တရဲ့သတ္တိ, အတ္တလို့ခွဲလန်းမှုများ, အဲလို အားဖြင့် တော်တော်ရှေးကျတဲ့ အချိန်တုန်းကပဲ ပညာရှိတွေ တွေးတောခဲ့ကြ စဉ်းစားခဲ့ကြပါသတဲ့။

အဲလိုစဉ်းစားကြတဲ့နေရာမှာ တချို့ပုဂ္ဂိုလ်တွေက "အတ္တသည် အလွန်သေးငယ်၏, ပရမာဏုမြူလို့ ခေါ်ရတဲ့ လူတို့ မျက်စိနဲ့ ကြည့်လို့ မမြင်နိုင်လောက်အောင် အသေးဆုံး မြူမှုန်မျှလောက်သာ ရှိ၏"လို့ ယူဆကြသတဲ့။

နိဂဏ္ဌနာဋပုတ္တလို့ ထင်ရှားတဲ့ ဂိုဏ်းဆရာတို့က တော့ "အတ္တသည် ခန္ဓာကိုယ်တစ်ခုလုံး ပျံ့နှံ့နေ တယ်၊ ခန္ဓာကိုယ်ကြီးသလောက် အတ္တလည်း ကြီး တယ်၊ ဥပမာ-ပုရွက်ဆိတ်ကလေး ခန္ဓာကိုယ်၌ ရှိတဲ့ အတ္တက သူ့အရွယ်လောက်ပဲ ရှိတယ်၊ ဆင်ကြီးမှာ တည်ရှိနေတဲ့ အတ္တကျတော့ ခန္ဓာကိုယ့်အလိုက် အတ္တလည်း ကြီးလာတယ်"ပေါ့လေ။

တစ်ခါ ဝေဒန္တကျမ်းဆရာတို့ကျပြန်တော့ "အတ္တ ဆိုတာ ကမ္ဘာကို ဖန်ဆင်းနိုင်တဲ့ ဗြဟ္မာကြီးတို့ရဲ့ အစိတ်အပိုင်းပဲ, ဗြဟ္မာကြီးတွေ တန်ခိုးကြီးသလို အတ္တလည်း တန်ခိုးကြီးတယ်၊ ပမာဏကတော့ ကြီး မားသင့်တဲ့အခါ ကြီးမားတယ်၊ ခန္ဓာကိုယ်အဟောင်း ကို စွန့်ပြီး ခန္ဓာကိုယ်အသစ်ကို ရှာနေခိုက်မှာ အလွန် သေးငယ်တဲ့ ပမာဏရှိတယ်"လို့ ယူကြသတဲ့။

## ပုံသဏ္ဌာန်နှင့်သူတို့နေရာဌာန

တချို့က "အတ္တသည် ဗြဟ္မာကြီး၏အစိတ်အပိုင်း ဆိုတာ မှန်တယ်၊ ဒါ့ကြောင့် တစ်ခုတည်းသာ ရှိ တယ်"လို့ ယူဆကြပြီး တချို့ကတော့ "ဘယ်ဟုတ် မလဲ, ခန္ဓာအိမ်တစ်ခုလျှင် အတ္တတစ်ခုစီ ရှိတာပေါ့၊ ဒါ့ကြောင့် အများကြီး"လို့ ယူကြသတဲ့၊ ဒါတွေ အားလုံးဟာ အတ္တရဲ့ ပုံသဏ္ဌာန်ကို ကြံစည်ကြပုံ တွေပဲ ဒကာကြီးရဲ့။

**ကျောင်းအုပ်ကြီး**။ ။ဩော်- တယ်လဲ များပါလား ဘုရား၊ စိတ်ဝင်စားစရာပဲ။

**ဆရာတော်** ။ ။ဟုတ်တယ် ဒကာကြီးရဲ့, အဲဒီ နောက် တည်နေရာကို စဉ်း စားကြပြန်တယ်၊ ဂိုဏ်းဆရာ တို့အလို"အတ္တသည်ခန္ဓာကိုယ် တစ်ကိုယ်လုံး၌ ပျံ့နှံ့ တည် နေ၏"လို့ ယူဆကြတယ်။

ဒါတွေနှင့် ပတ်သက်လို့ မိတက္ခရကျမ်းဆိုတာ သူတို့ ခေတ်က ရှိခဲ့ကြတယ်၊ အဲဒီ ကျမ်းအရ အဆိုကတော့ "နှလုံးသားရဲ့ ဝဲဘက် ယာ ဘက် နှစ်ဖက်မှ အထက်သို့ တက်ပြီး နှာခေါင်းပေါက်နှင့် ဆက်စပ်တည်နေတဲ့အကြော ကြီး နှစ်ခု ရှိတယ်၊ အဲဒီ အကြောကြီးများဟာ ထွက် သက် ဝင်သက် လေတို့ရဲ့ သွားရာ လမ်းမကြီးတွေ ဖြစ် တယ်"လို့ ဆိုတယ်။

ပြီးတော့ အခြား အကြော ကြီးတစ်ခုကတော့ နှလုံးသား မှ အထက်သို့ တက်ပြီး ဦး ခေါင်းမှာရှိတဲ့ အပေါက် (ငယ် ထိပ်သို့) ရောက်အောင် တည် တယ်လို့ ဆိုတယ်။

အဲဒီ အကြောကြီး သုံးခုတို့ ရဲ့ အလယ်မှာ လရောင်ကဲ့သို့ အရောင်အဝန်းရှိတယ်၊ အဲဒီ အရောင်အဝန်းရဲ့ အလယ် မှာမှ အတ္တသည် "လေငြိမ် ရာ၌ ထွန်းထားသော မီးခွက် ကဲ့သို့ မတုန်မလှုပ် ငြိမ်သက် စွာ တောက်ပနေသည်"လို့ ဆိုတယ်၊ ဒါ တွေဟာ အတ္တရဲ့ တည်ရာဌာနကို ကြံဆပုံတွေ ပေါ့ ဒကာကြီးရဲ့။

**ကျောင်းအုပ်ကြီး**။ ။ဩော်-ဒါ သူတို့ လက်တွေ့ မဟုတ်ဘဲနဲ့ ကြံဆချက်သက် သက်တွေပဲပေါ့။

**ဆရာတော်** ။ ။ဟုတ်တယ် ဒကာကြီး, တွေး ခေါ် မှန်းဆပြီး ကြံဆချက်မျှ သာပဲပေါ့။

## အသက် ဝိညာဉ် လိပ်ပြာကောင်

ပြီးတော့ ရှိသေးတယ် ဒကာကြီး, အခုပြောနေတဲ့ ပါဠိလို အတ္တကို မြန်မာတို့က "အသက်ကောင်, ဝိညာဉ်ကောင်, လိပ်ပြာကောင်"လို့ ခေါ်ကြတယ်၊ သူ့သတ္တိတွေကတော့ "ကာရက-ပြုဖွယ်ဟူသမျှ ပြုလုပ်တတ်တယ်၊ ဝေဒက-ခံစားစရာဟူသမျှကို ခံစားတတ်တယ်၊ သာမီ-ခန္ဓာအိမ်ကို ပိုင်စိုးတယ်, အရှင်သခင်ဖြစ်တယ်၊ နိဝါသီ-ခန္ဓာအိမ်တစ်ခုမှာ အမြဲနေတယ်, ခန္ဓာတစ်ခု ပျက်စီးရင် နောက်ခန္ဓာ သစ်တစ်ခု ရှာမှီးပြီး ခိုအောင်းတယ်၊ သယံဝသီ-ခန္ဓာနှင့်ဆိုင်သမျှ သူ့အလိုကျ ဖြစ်ရတယ်လို့ ယူဆကြတယ်။

ဥပမာဆိုပါတော့, အဆင်းရူပါရုံကို မြင်တဲ့နေရာမှာ မျက်လုံးအတွင်းမှာရှိတဲ့ စက္ခုလို့ခေါ်တဲ့ အကြည်ဓာတ် ပသာဒနှင့် အတ္တက မြင်တယ်၊ အသက် ဝိညာဉ် လိပ်ပြာကောင်လို့ နာမည်အမျိုးမျိုးနှင့် အတ္တက မြင်တယ်လို့ ဆိုလိုတာပေါ့၊ နားနှင့်ကြားတဲ့အခါ, နှာခေါင်းနှင့် အနံ့ယူ၍ ရှူတဲ့အခါ, လျှာနှင့် အရသာကို ခံယူတဲ့နေရာတို့မှာလည်း အတ္တသည် ကြား၏၊ အတ္တသည် အနံ့ အမွှေးအကြိုင် အပုပ်အစပ်ကို မွှေး၏, နံ၏၊ အတ္တသည် အရသာ အကောင်းအဆိုးကို သိ၏လို့ ဆိုလိုတာပေါ့။

အလားတူပဲ တုတ်နှင့်ရိုက်လို့ နာကျင်တဲ့နေရာမှာ အတ္တသည် နာ၏၊ မီးနှင့်တို့တဲ့အခါ အတ္တသည် ပူ၏၊ ရေနှင့် တွေ့တဲ့အခါ အတ္တသည် အေး၏၊ ဖဲမွေ့ရာ စတဲ့ နူးနူးညံ့ညံ့ ချောချောမွေ့မွေ့တို့နှင့် တွေ့တဲ့အခါ တစ်ယောက်နှင့်တစ်ယောက် ကိုယ်ချင်း တွေ့ထိတဲ့အခါတို့မှာ အတ္တသည် အတွေ့အထိကို ခံစား၏၊ စိတ်ကူးရာမှာ အာရုံတစ်ခုခု ထင်လာတဲ့အခါ အတ္တသည် သိ၏။

အဲလို အစရှိသဖြင့် အတ္တသည်သာ အရာရာ ပြုလုပ်၏၊ အတ္တသည်သာ ခံစားရ၏၊ အတ္တသည်သာ ဤခန္ဓာကိုယ်ကို ပိုင်စိုးပိုင်နင်း ဖြစ်၏၊ စားချင် သွားချင် အိပ်ချင် စသော အလိုဆန္ဒဟူသမျှသည် အတ္တ၏ လိုအင်ဆန္ဒချည်းသာ ဖြစ်၏၊ ခန္ဓာကိုယ် အဟောင်းပျက်သောအခါ အတ္တသည် ခန္ဓာအိမ် အသစ်ကို ရှာမှီး၏။

## ခန္ဓာအငှားနှင့်ဝင်ကစွပ်လို

ပင်လယ်ကမ်းစပ်များသို့ လျှောက်သွားလျှင် "ဝင်ကစွပ်ကောင်"ဆိုတာ တွေ့ရမည်၊ မျှော့လို, ပက်ကျိလို အကောင်မျိုး ဖြစ်၏၊ အရိုး မပါ, အပျော့စား ဖြစ်သည်၊ သူများ ချွတ်ပစ်ထားခဲ့သော ခရုယောက်သွား အခွံများ အတွင်းသို့ ဝင်၍ သူများ၏ ခန္ဓာကိုယ်ဖြင့် လျှောက်သွားနေတတ်၏၊ နည်းနည်း အကောင်ကြီးလာလျှင် ကြီးတဲ့အခွံထဲ ပြောင်းဝင်ပြီး ဆက်လက် သွားနေတတ်၏၊ သူ့ဘာသာ သူ့ခန္ဓာကိုယ်ဖြင့် မသွားနိုင်၊ ဤသို့အားဖြင့် ခန္ဓာကိုယ် တစ်ခုပြီးတစ်ခု ပြောင်း၍ ဝင်တတ်၏ဟု ဆိုလိုဟန်တူပါရဲ့၊ ဒါ့ကြောင့် ခန္ဓာကိုယ်တစ်ခုခု၌ အမြဲနေတဲ့ အရာဝတ္ထုလို့ ဆိုလိုပါတယ်။

ဤသို့ဤနှယ် ကြံဖန်ကာ ကံ ဉာဏ် ဝီရိယ စိတ်တို့ရဲ့ အစွမ်းသတ္တိဟူသမျှကို အတ္တရဲ့ အစွမ်းသတ္တိချည်းဟူ၍ ထင်မှတ်နေတတ်ကြတယ်၊ အစစ်အမှန်မရှိတဲ့ အတ္တကိုပဲ အစစ်အမှန်ရှိသလိုလို သတ္တိတွေ အမျိုးမျိုးတင်ပြီး ကြံစည်ယုံဆနေကြတယ်ဒကာကြီး။

**ကျောင်းအုပ်ကြီး** ။ ။ ဒီအတိုင်းပဲ, အခုလူတွေယူဆထင်မြင်နေကြတယ်ဘုရား။

**ဆရာတော်** ။ ။ အခုတင် ဘယ်ကမလဲ ဒကာကြီး၊ ဟိုးယခင်ယခင် ဘုရားမပွင့်ခင်ကတည်းကပဲ ဒီလိုယူဆလာခဲ့ကြတာ၊ ဒါက အရိုးစွဲနေကြတယ်။

# အတ္တလို့ ထင်မှတ်မှားစရာများ

## အတ္တထင်စရာ ဌာနငါးခု

အတ္တလို့ စွဲလမ်းဖို့နေရာဟာ ငါးဌာနရှိတယ် ဒကာကြီး၊ ဘာတွေလဲဆိုရင် "ရုပ်, ဝေဒနာ, သညာ, သင်္ခါရ, ဝိညာဉ်"လို့ ခေါ်တဲ့ ခန္ဓာငါးပါးပဲ၊ တစ်နည်းအားဖြင့် ရုပ်နှင့်နာမ်ဆိုပါတော့၊ အဲဒီမှာ ရုပ်ကို အတ္တလို့ စွဲလမ်းတဲ့သူတွေအနေနှင့် ရုပ်ခန္ဓာကိုယ်ရဲ့ အရပ်တိုင်းမှာ အလွန်ခိုင်မာတဲ့ (အမြဲတေလို မပျက်စီးနိုင်တဲ့) ရုပ်မှုန့်ကလေးများရှိတယ်၊ ဒီခန္ဓာကိုယ် အိုမင်းရင့်ရော်လို့ ပျက်စီးတဲ့အခါ နောက် ခန္ဓာအသစ်မှာဖြစ်ပြီး ကြီးပွားကြတယ်လို့ ယူဆကြတယ်။

နောက်ဆုံး ကမ္ဘာကြီးပျက်စီးချိန်ကျလို့ မီးလောင်သွားကြတဲ့အခါမှာတောင် ဒီအတ္တရုပ်မှုန့်ကလေးတွေဟာ မျက်စိနှင့်မမြင်နိုင်လောက်အောင် အလွန်သေးငယ်တဲ့ ပရမာဏုမြူကလေးတွေအဖြစ်နှင့် အနှံ့အပြား ကျန်ရစ်မယ်၊ နောက်ကမ္ဘာသစ်ကြီးတည်တဲ့အခါ ပရမာဏုမြူ တစ်ခုနှင့်တစ်ခု စပ်မိပြီး အဏုမြူနှစ်ခုတွဲ, အဏုမြူလေးခုတွဲ, ရှစ်ခုတွဲစသည်ပေါင်းဖွဲ့ကာ သတ္တဝါတွေ ဖြစ်လာမယ်၊ နတ် လူ ဗြဟ္မာတွေအထိ ဖြစ်လာလိမ့်မယ်လို့ ယူဆကြတယ်၊ ဒါက ရုပ်အပေါ်မှာ အတ္တစွဲလမ်းတဲ့သူတွေအနေနှင့် ထင်ကြတာ၊ တချို့ကခံစားတတ်တဲ့ဝေဒနာကို အတ္တလို့ ထင်ကြတယ်၊ တချို့ကတော့ ဟိုဟာဒီဟာ မှတ်ထားတတ်တဲ့ သညာကို အတ္တလို့ အထင်မှား၊ တချို့ကျပြန်တော့ ဟိုကိစ္စ ဒီကိစ္စတို့မှာ လှုံ့ဆော်ပေးတတ်တဲ့ စေတနာသင်္ခါရကို အတ္တလို့ ထင်ကြပြန်ရော။

## အသက်ဝိညာဉ် မှတ်ထင်နေကြ

နောက်တစ်မျိုးထင်ကြပုံက သိတတ်တဲ့ စိတ်ဝိညာဉ်, စာလို ပြောရင်တော့ ဝိညာဏက္ခန္ဓာ၊ အဲဒါကို အတ္တ အသက် ဝိညာဉ် လိပ်ပြာလို့ ထင်ကြခြင်းပဲ၊ ဒီနောက်ဆုံး ထင်မှတ်ယူဆခြင်းဟာ ဗုဒ္ဓဘာသာဝင်အခေါ်ခံသူ မြန်မာလူမျိုးတို့နှင့် တရုတ်လူမျိုးတချို့တို့၏ စွဲလမ်းပုံနှင့် တစ်ထပ်တည်း ဖြစ်နေတော့တယ် ဒကာကြီး၊ ဘာလို့လဲဆိုရင် မြန်မာလူမျိုးတွေဟာ လူတစ်ယောက် သေဆုံးပြီဆိုရင် ခန္ဓာကိုယ်ထဲက အသက်ကောင် (သို့မဟုတ်) ဝိညာဉ် (သို့မဟုတ်) လိပ်ပြာ ထွက်သွားတယ်လို့ ထင်ကြတယ်၊ ထွက်သွားပြီး ခန္ဓာအသစ်မှာ ကံအားလျော်စွာ ငြိတွယ်တယ်လို့ ထင်ကြတယ်။

တစ်ခါတလေ ခန္ဓာအသစ် မတွေ့သေးလို့ ခန္ဓာအဟောင်းကို မလွှတ်သေးဘဲ ဖက်တွယ်ထားပြီး (လောက်လန်းသဖွယ်)အသစ်ကို ရှာဖွေ ထောက်လှမ်းနေသည်လို့ ပြောကြသေးရဲ့၊ အကောင်ကလေးသဖွယ်ရှိသည်လို့ စွဲထင်နေတတ်ကြတယ်၊ ဒါကြောင့် ကလေးသူငယ်များ ထိတ်လန့်သွားတဲ့အခါ "လိပ်ပြာစဉ်သွားတယ်"လို့ ပြောတတ်ကြတာပေါ့။

**ကျောင်းအုပ်ကြီး** ။ ။ ဟုတ်တယ်ဘုရား, အခုခေတ် အဲလိုပဲ ပြောနေကြပါတယ်။

**ဆရာတော်** ။ ။ အဲဒါတွေဟာ ရှေး အစဉ်အလာကပဲ စွဲလာခဲ့ကြတာ၊ စွဲရုံတင်မကဘူး၊ အဲဒီ စဉ်သွားတဲ့ ထွက်သွားတဲ့ "လိပ်ပြာကို ပြန်ခေါ်နည်း" ရှေးလူကြီးသူမတွေ လုပ်တတ်ကြတယ်၊ ပြီးတော့ လူတစ်ယောက်ယောက် သေရင် အဲဒီ လူရဲ့ လိပ်ပြာက ကျန်တဲ့သား သမီးရဲ့လိပ်ပြာကို လာပြီးခေါ်တတ်တယ်ဆိုပြီး "လိပ်ပြာခွဲနည်း"အစီအရင်တွေလဲ လုပ်တတ်ကြရဲ့၊ အဲဒါတွေ တစ်ခုမှ မဟုတ်ဘူးဒကာကြီး, အစွဲကြီးကြတာ၊ စွဲလဲ စွဲစရာပဲ၊

ဇာတ်ပွဲ အငြိမ့်ပွဲ ရုပ်သေးပွဲတွေ မှာ သေတဲ့အခန်း ပြပြီးတော့ သေတဲ့သူရဲ့ လိပ်ပြာကလေးက မခွဲနိုင်လို့ တစ်ရစ်ဝဲဝဲ တကပ်ကပ်နှင့် လုပ်နေပုံ၊ ရှေးတုန်းက ရုပ်သေးပွဲတွေမှာ လိပ်ပြာရုပ်ကလေး ကန့်လန့်ကာ ရှေ့မှာ ဖျတ်ဖျတ် ဖျတ်ဖျတ်နဲ့ ပျံနေတယ်ထင်ရအောင် ကြိုးကလေးနဲ့ ဆွဲပြနေတော့ ပိုပြီးစွဲတာပေါ့၊ မြင်လွယ်တယ်လေ၊ အခုခေတ် ရုပ်ရှင်တွေထဲမှာလဲ ဒီလိုပဲ လုပ်ပြတတ်ကြတယ်လို့ ဆိုတယ်။

အဲ သူတို့ တစ်ကွက် လုပ်ပြလိုက်ရင် ပြီးရော၊ ဘုန်းကြီးဆယ်ပါး လိုက်ဟောလို့တောင် မမီတော့ဘူး၊ မကျွတ်နိုင်တော့ဘူး၊ သိပ်စွဲတာ။

## သာတိရဟန်းစွဲလမ်းပုံ

ဗုဒ္ဓလက်ထက်တော်တုန်းက "သာတိ" ဆိုတဲ့ ရဟန်းတစ်ပါး ရှိတယ်၊ သူက ဇာတ်တော်များကို အထူး လိုက်စားတယ်၊ သူလေ့လာရသမျှ ဇာတ်တော်တွေထဲမှာ နောက်ပိုင်းဇာတ်ပေါင်းပြီဆိုရင် "ရှေးတုန်းက ဝေဿန္တရာမင်းကြီးသည် ယခုအခါ ငါဘုရားဖြစ်လာ၏၊ ရှေးတုန်းက မဟာဇနကမင်းကြီးသည် ယခုအခါ ငါဘုရားဖြစ်လာ၏"အစရှိတဲ့ စကားအသုံးအနှုန်းများကို သူက လေးလေးနက်နက် စဉ်းစားတယ်။

သုမေဓာဘဝတုန်းက စိတ်ဝိညာဉ်သည် မပျက်မစဲ ခိုင်မြဲစွာ တည်တံ့ခဲ့ပြီးလျှင် တေမိမင်း၊ မဟာဇနကမင်း စသော ဘဝများသို့ ပြောင်းခဲ့၏၊ ဝေဿန္တရာမင်းကြီးဘဝသို့လည်း ရောက်လာခဲ့သည်၊ နောက်ဆုံး ဘုရားဖြစ်လာသောအခါ အလွန့်အလွန် ရင့်မာသော ဝိညာဉ်တော် ဖြစ်လာရ၏"လို့ သူက ယူဆနေတယ်၊ ဒါဟာဆိုရင် အခုခေတ် မြန်မာလူမျိုးတို့နှင့် တရုတ်လူမျိုးတို့ရဲ့ အစွဲမှားအတိုင်း တစ်ထပ်တည်း ဖြစ်နေတော့တာပေါ့၊ အဲလို ဗုဒ္ဓလက်ထက်တော်တုန်းက ပုဂ္ဂိုလ်တချို့နှင့် ဗုဒ္ဓပွင့်တော်မမူခင်တုန်းက ပုဂ္ဂိုလ်တွေဟာ ဒီလိုပဲ အစွဲမှားနေကြတော့တာပဲ၊ စဉ်းစားဉာဏ်ရှိလေ အတ္တ အစွဲကြီးလေ ဖြစ်ပြီးတော့ ကမ္ဘာကြီးတစ်ခုလုံး နတ်ကြီးတွေ ပြဟ္မာကြီးတွေအထိ အတ္တ စွဲဖုံးကြတော့တယ် ဒကာကြီး

## မာရ်နတ်ကြီးက စိုးရိမ်မိသတဲ့

တစ်ခါတုန်းက "အရှင်ဂေါဓိက"ဆိုတဲ့ ရဟန်းတစ်ပါးဟာ ရာဇဂြိုဟ်မြို့အနီးက ဣသိဂိလိတောင်နံပါး ကျောက်ဖျာအညိုကြီးရှိရာ လိုဏ်ဂူမှာ သီတင်းသုံးနေပါတယ်၊ အဲဒီ ရဟန်းဟာ သီလ သမာဓိ စင်ကြယ်စွာနှင့် ရဟန်းတရားကို အားထုတ်တဲ့အခါ ဖြစ်ပေါ်လာတဲ့ လောကီဈာန်သမာပတ်ဟာ အတွင်းရောဂါတစ်ခုကြောင့် ပြန်ပြန်ပြီး လျှောလျှောကျနေသတဲ့၊ ၁, ၂, ၃, ၄, ၅, ၆ ကြိမ်တိုင်အောင် လျှောလျှောကျနေသတဲ့၊ ၇ ကြိမ်မြောက်မှာတော့ "ဈာန်သမာပတ်မလျှောခင် ကိုယ့်ကိုယ်ကို စီရင်မှပဲ"ဟု သဘောရ၍ ခေါင်းရိတ်သင်တုန်းဓားကို အသင့်ယူကာ အိပ်ရာ ခုတင်ထက်သို့ တက်ပြီး လျောင်းပါသတဲ့။

ဒါကို မာရ်နတ်ကြီးက မြင်လို့ ဘုရားထံကို အမြန်သွားပြီး လျှောက်တယ်၊ တားမြစ်ဖို့ပေါ့လေ၊ ဒါပေမယ့် အဲဒီ အချိန်မှာပဲ အရှင်ဂေါဓိကဟာ ကိုယ့်လည်ပင်းကိုယ် သင်တုန်းဓားနှင့် လှီးလိုက်ပါရော-

ပြီးတော့ ရရှိလာတဲ့ နာကျင်မှု ဝေဒနာတွေကို ခွာထားပြီး ဆက်လက် အားထုတ်တဲ့အတွက်... အရဟတ္တဖိုလ်သို့ ရောက်ပြီး * သမသီသီရဟန္တာအဖြစ်နှင့် ပရိနိဗ္ဗာန် စံသွားပါသတဲ့။

---

* သမသိသိရဟန္တာဟူသည် အာသဝေါကုန်ခန်း ရဟန္တာဖြစ်ခြင်းနှင့်ပရိနိဗ္ဗာန်ပြုခြင်း တစ်ပြိုင်နက်လိုလို ထင်ရအောင် မရှေးမနှောင်း ဖြစ်သွားသောပုဂ္ဂိုလ်။ (မွေပဒ, ပ၊ နှာ-၂၇၂၊ သံ-၁၊ သဂါထာ-ပါ၊ နှာ-၁၂၁။)

## အသက်လိပ်ပြာကို လိုက်ရှာနေတာတဲ့

ဘုရားကိုယ်တော်မြတ်လည်း ရဟန်းသံဃာများ စွာနှင့် ကုသိဂိလိတောင်နံပါးဆီသို့ ကြွလာနေပါ တယ်၊ အဲဒီအချိန်မှာ အရှင်ဂေါဓိကနေတဲ့ လိုဏ်ဂူရဲ့ ဝဲဘက် ယာဘက် ရှေ့ဘက် နောက်ဘက် အောက် ဘက် အထက်ဘက်မှာ မီးခိုးတန်းကြီးတစ်ခု ညို့ သန်းသန်းကြီး ပြေးလွှားဝေ့ပတ်နေပါသတဲ့၊ စွန်ရဲ တစ်ကောင် အစာဖမ်းသလို သွက်လက်စွာနှင့် လှည့် ပတ် ပျံသန်း ဝေ့ဝိုက်ရှာဖွေနေသတဲ့၊ ဒါကို မြတ်စွာ ဘုရားက "ရဟန်းတို့...ဟောဟိုက အခိုးတန်းကြီး ဝေ့ပတ်နေတာ မြင်ကြရဲ့လား?"ဟု မေးတော့ "မြင်ပါ အရှင်ဘုရား"လို့ ဖြေကြသတဲ့။

"အေး-အဲဒါ မာရ်နတ်က ဂေါဓိကရဟန်းရဲ့ အသက် ဝိညာဉ် လိပ်ပြာကို လိုက်ရှာနေတာ၊ ဘယ်မှာ တွေ့လိမ့်မလဲ၊ အစကတည်းကကို မရှိ ခဲ့တာ၊ ယခုအခါမှာတော့ ဂေါဓိကရဟန်းဟာ ပရိနိဗ္ဗာန်ပင် ပြုသွားချေပြီ"ဟူ၍ မိန့်တော်မူသတဲ့။

အဲဒါပဲ ကြည့်ပေတော့ ဒကာကြီး၊ မာရ်နတ်ကြီး လဲ အသက် ဝိညာဉ်ကောင် လိပ်ပြာကောင် ရှိတယ် ထင်လို့ လိုက်ရှာနေတာ၊ ကမ္ဘာကြီးတစ်ခုလုံး နတ် ကြီးတွေ ဗြဟ္မာကြီးတွေအထိ အစွဲမှားနေကြတာပဲ။

**ကျောင်းအုပ်ကြီး** ။ ။ အင်း-အံ့သြစရာ၊ စိတ်ဝင်စား စရာပဲ၊ အခု မာရ်နတ်ကြီးတို့၊ စောစောက အရှင်ဘုရား အမိန့်ရှိခဲ့တဲ့ သာတိရဟန်းတို့ စွဲကြထင်ကြသလို ထင်စရာ ကြီးပဲ၊ ဘာလို့လဲဆိုတော့... ဘုရားဟော တရားထဲမှာပဲ တချို့နေရာတွေမှာ "အတ္တာ ဟိ အတ္တနော နာထော"တို့လို အဟောမျိုး၊ ပြီးတော့ သာတိ ရဟန်းစဉ်းစားသလို ဝိညာဉ် ကလေးဟာ သုမေဓာဘဝ၊ တေမိဘဝ၊ မဟာဇနကဘဝ၊ ဝေဿန္တရာဘဝ စသည်တို့ကို ဖြတ်သန်းလာခဲ့ပြီး "ယခုအခါ ငါဘုရား ဖြစ်လာ၏"ဆိုတဲ့ အဟောမျိုးဆိုတော့ ထင်ချင် စရာကြီးပဲ ဘုရား။

**ဆရာတော်** ။ ။ ဟုတ်တယ်၊ ဒကာကြီး... အဲဒါကိုလဲ ရှင်းပါဦးမယ်။

# တစ်ဘဝမှ တစ်ဘဝသို့ ဘယ်လိုကူးသလဲ

## ဘဝအကူးမှာ ပဲ့တင်သံပမာ

ဒီလို တမလွန်ဘဝအကူးအပြောင်းနှင့်ပတ်သက် လို့ စာတွေထဲမှာ ဆီမီးတိုင်တစ်ခုမှ မီးတိုင်တစ်ခုဖြင့် ကူးယူညှိထွန်းသော ဥပမာ၊ ပဲ့တင်သံဥပမာတို့နှင့် ပြကြတယ် ဒကာကြီးရဲ့၊ အဲဒီမှာ ပဲ့တင်သံဥပမာနှင့် ပြောပါ့မယ်၊ တောကြီးတောင်ကြီးတွေ အဆောက် အအုံကြီးတွေ အနားသွားပြီး "ဟေး"လို့ အသံပေး လိုက်ရင် ဟိုကလည်း ပြန်ပြီး "ဟေး"လို့ အသံပြုပါ တယ်၊ ဒါကို "ပဲ့တင်သံ"လို့ ခေါ်ကြပါတယ်၊ "ငါ လာပြီဟေ့"လို့ အော်လိုက်ရင်လဲ ဟိုတောင်တန်း ကြီးက "ငါလာပြီဟေ့" လို့ ပြန်ပြီး အော်ပါတယ်။ တောင်တန်းကြီးက စကားပြောတတ်နေပါတယ်။

ကဲ-ဒီလိုဆိုရင်၊ တောင်တန်းကြီး စကားပြော တတ်တယ်ဆိုရင် လူက ဘာမျှမပြောနှင့်၊ နှုတ်ပိတ် နေ၊ တောင်တန်းကြီးအနား သွား၊ စိတ်ထဲက အောက်မေ့၊ ခုနတုန်းကလို "ငါလာပြီဟေ့"လို့ ပြန် ပြောစမ်း၊ အော်စမ်းလို့ စိတ်ထဲက ခိုင်းကြည့်ပါ၊ ဒီအခါ တောင်တန်းကြီးက အော်ဦးမလား၊ မအော် တော့ပါ၊ ဘာမျှ မပြောတော့ပါ။

ထပ်မံ ရှင်းပြပါဦးမယ်၊ ပထမဦးစွာ "ငါလာပြီဟေ့"ဆိုသောအသံသည် တောင်တန်းကြီး၏အသံမဟုတ်ပါ၊ လူ၏အသံ ဖြစ်ပါတယ်။

ဒုတိယအကြိမ် "ငါလာပြီဟေ့"လို့ ပြန်၍ဆိုသောအသံကား လူ၏အသံ မဟုတ်တော့၊ တောင်တန်းကြီး၏အသံ ဖြစ်သွားပြီ၊ တခြားစီပဲ။

သို့သော်လဲ တောင်တန်းကြီးက သူ့ဘာသာသူ စတင်၍ အသံ မထွက်တတ်ပါ၊ မပြောတတ်ရှာပါ။ တစ်ဖက်က လူပါမှသာ ပြောတတ်ရှာသည်၊ သို့ဖြစ်၍ တစ်ဖက်နှင့် အကြောင်း မကင်းချေ။

ဒုတိယအသံသည် တခြား သီးသန့် ဖြစ်သော်လည်း ပထမအသံနှင့် မကင်းနိုင်ချေ၊ ပထမအသံပေါ်၌ အခြေပြုသည်၊ ပထမအသံနှင့် အကြောင်းမကင်းချေ၊ ဆက်နေသည်လည်း မဟုတ်။

## အစွန်းနှစ်ပါး သဿတ, ဥစ္ဆေဒ

ဤဥပမာအတိုင်းပင် တစ်ဖက်ဘဝသို့ ဆက်နွယ်ရာ၌ ဤဘက်ဘဝ အသက်ဝိညာဉ်ကောင်ကလေးက ဟိုဘက်ဘဝသို့ ဆက်၍ ကူးသွားသည်ကား မဟုတ်၊ အသက်ဝိညာဉ်ကောင်လည်း မရှိ၊ သိတတ်အာရုံယူတတ်သော နာမ်တရားသာ ရှိ၏၊ ထိုမှာဘက်သို့ ကူးသွားသည် မဟုတ်သော်လည်း ဤမှာဘက်မှာရှိ၍ ဟိုမှာဘက်သို့ လှမ်းပြီး အာရုံပြုသည်၊ အာရုံယူသည်။

အာရုံယူသည့်အလျောက် ဟိုမှာဘက်၌ သီးသန့်သွား၍ ဖြစ်ရ၏၊ သီးသန့်ဖြစ်ပေါ်လာရသည်၊ ဤကဲ့သို့ ဟိုမှာဘက်၌ သီးသန့်သွား၍ ဖြစ်ရခြင်းသည် ဤမှာဘက်နှင့် မကင်းချေ၊ ... ဤမှာဘက်ပေါ် အကြောင်းခံလျက် ဖြစ်ရသည်၊ ဤသို့လျှင် အပြည့်အဝ ဆက်သွယ်သည်လည်း မဟုတ်, လုံးဝမဆက်သွယ်ဟုလည်း မဆိုသာသောနည်း ဖြစ်တယ် ဒကာကြီး။

များစွာသော ပုဂ္ဂိုလ်ကို့ဟာ သဿတဒိဋ္ဌိနှင့် ဥစ္ဆေဒဒိဋ္ဌိနှစ်ပါးမှာ သဿတဒိဋ္ဌိအဖြစ်များကြတယ်၊ သဿတဒိဋ္ဌိဆိုတာက ဤဘဝနှင့်နောက်နောက်ဘဝတွေဟာ တောက်လျှောက်ဆက်နေတယ်၊ ဤဘဝမှ အသက်ဝိညာဉ်ကလေးသည် မပျက်မစဲ အမြဲတည်တံ့၍ နောက်နောက်ဘဝများသို့ ကူးပြောင်းကူးပြောင်းသွားတယ်လို့ ယူဆကြတာပေါ့၊ ဒါက လက်ယာစွန်း။

တစ်ဖန် ဥစ္ဆေဒဒိဋ္ဌိဆိုတာကတော့ ဤဘဝ ဤကိုယ်, ဟိုဘဝ ဟိုကိုယ်ပဲ၊ တစ်ဘဝနှင့်တစ်ဘဝ မဆိုင်ပါဘူး၊ သီးသန့် တစ်ခြားစီပဲ၊ ဤဘက်ဘဝ ဝိညာဉ်နှင့် ဟိုဘက်ဘဝဝိညာဉ် တခြားစီပဲလို့ ယူတဲ့အယူ၊ ဒါကျပြန်တော့လဲ လက်ဝဲစွန်း ရောက်နေပြန်ရော၊ ဒီဝါဒ နှစ်မျိုးလုံးဟာ... အသက် ဝိညာဉ်လိပ်ပြာကောင် ရှိတယ်လို့ချည်း ယူကြတာပဲ။

## မဇ္ဈိမပဋိပဒါ အလယ်လမ်းဘဝ

ခုနတုန်းကပြောခဲ့တဲ့ ပုံတင်သံ ဥပမာကတော့ အသက် ဝိညာဉ် လိပ်ပြာကောင်လည်း မပါဘူး၊ လက်ဝဲစွန်း လက်ယာစွန်း နှစ်ပါးကိုလည်း မကပ်ရောက်ဘဲ ရှောင်ရှားပြီး အလယ်ကြားက သွားတဲ့ မဇ္ဈိမပဋိပဒါလမ်းပဲ, ဗုဒ္ဓလမ်းစဉ်ပေါ့။

နောက်နောက်ဘဝများသည် ရှေ့ရှေ့ဘဝတွေနှင့် တခြားစီဖြစ်သော်လည်း လုံးလုံးလျားလျား တခြားလည်း မဟုတ်၊ ရှေ့ဘဝတွေနှင့် အကြောင်းမကင်းသောအားဖြင့် ဆက်စပ်နေသေးသည်လို့ ဆိုလိုပါတယ်။

ဒါကို ရည်ရွယ်ပြီး ရှင်တော်ဗုဒ္ဓက သုမေဓာဘဝ, တေမိဘဝ, မဟာဇနကဘဝ, ဝေဿန္တရာဘဝတို့ကို ဖြတ်သန်း ဖြတ်သန်းပြီးမှ ယခုအခါ ငါဘုရားဘဝသို့ ရောက်လာတယ်လို့ မိန့်တော်မူခြင်းပါ ဒကာကြီး။

ပြီးတော့ "အတ္တာ ဟိ အတ္တနော နာထော"တွင် (အတ္တနော-မိမိ၏၊ အတ္တာ ဟိ(အတ္တာ ဧဝ)-အတ္တသည်သာ၊ နာထော-ကိုးကွယ်ရာတည်း၊ ဝါ-ကိုယ့်ကိုယ်သာ အားကိုးရာဆိုတဲ့ အသုံးအနှုန်းမှာလည်း လူတွေ အများ နားလည်နေတဲ့ ဝေါဟာရအသုံးအနှုန်းအတိုင်း ဟောလိုက်ခြင်းသာ ဖြစ်ပါတယ်။

## ဇီဝအတ္တနှင့်ပရမအတ္တ

ဒီအတ္တနှင့်ပတ်သက်လို့ ဇီဝအတ္တ, ပရမအတ္တလို့ နှစ်မျိုးရှိတယ် ဒကာကြီး၊ ဇီဝအတ္တဆိုတာက ခန္ဓာကိုယ်ထဲမှာ အသက်ကောင်ကလေး, ဝိညာဉ်ကောင်ကလေး, လိပ်ပြာကောင်ကလေး ရှိတယ်လို့ ယုံကြည်ယူဆနေတာ၊ အခု ပြောခဲ့တာတွေဟာ ဇီဝအတ္တတွေပေါ့၊ ခန္ဓာကိုယ်တွင်းကနေပြီး အလွန်သတ္တိကောင်းတယ်၊ "အရာရာကို ပြုလုပ်တတ်တယ်၊ ကောင်း/မကောင်းကို ခံစားတတ်တယ်၊ အတ္တသည် ခန္ဓာအိမ်၏ ပိုင်ရှင်ဖြစ်တယ်၊ ခန္ဓာအိမ်ဟူသော နေရာမှာ အမြဲနေတတ်တယ်၊ အရာရာကို မိမိအလိုသို့ လိုက်ပါအောင် ဆွဲဆောင်တတ်တယ်"ဆိုတဲ့ သတ္တိတွေ။

နောက်တစ်မျိုး ပရမအတ္တဆိုတာကတော့... ဖန်ဆင်းပြုပြင်နိုင်သော အစွမ်းသတ္တိရှိတယ်၊ ဒီ ကမ္ဘာလောကကြီးနှင့် သတ္တဝါတွေကို အတ္တက ဖန်ဆင်းထားတယ်လို့ ယုံကြည် ယူဆနေတာ၊... ဒါ့ကြောင့် ဒီပရမအတ္တတွေကို "ဤသွရ, ပရမီသွရ, ပရမီသွာ, ပရမတ္တာ"လို့ ဟိန္ဒူတွေ ခေါ်ကြတာပဲ၊ ဖန်ဆင်း စီမံနိုင်သောကြောင့် "အစိုးရတယ်"လို့ ဆိုလိုသတဲ့။

ဒါကြောင့် "အတ္တ-အစိုးရသည်၊ အနတ္တ-အစိုးမရ"လို့ ဘာသာပြန်တယ်၊ အဘိုး အဘွားတွေက ဆိုရင် "အနိစ္စ-အမြဲမရှိ၊ ဒုက္ခ-ဆင်းရဲ၏၊ အနတ္တ-အစိုးမရ"လို့ ပုတီးစိပ်တတ်ကြတယ်။

အနတ္တလက္ခဏသုတ်တော်၌ ဤပရမအတ္တကိုပင် ရည်စူး၍ ဟောတော်မူထားတာကို တွေ့ရပါတယ်။

### အနတ္တလက္ခဏသုတ်ဘာသာပြန်

"ရဟန်းတို့...ရုပ်သည် အတ္တမဟုတ် (ရုပ်မှာ အတ္တမရှိ) ထင်ရှားစေဦးမည်၊ ရဟန်းတို့...ရုပ်ခန္ဓာသည် အကယ်၍ အတ္တ ဟုတ်အံ့ (အတ္တဟုတ်ရိုးမှန်လျှင်) ဤရုပ်သည် နာကျင်ကိုက်ခဲခြင်း မဖြစ်ရာ၊ 'ငါ၏ရုပ်သည် ဤကဲ့သို့ ကျန်းကျန်းမာမာ လှလှပပဖြစ်ပါစေ, ဤကဲ့သို့ မကျန်းမမာ ဆိုးဆိုးရွားရွား မဖြစ်ပါစေနှင့်'လို့ ကိုယ့်အလိုကျအောင်တောင့်တ၍ ရကောင်းရာ၏။

ရဟန်းတို့...ရုပ်သည် အတ္တမဟုတ်သောကြောင့်သာ နာကျင်ကိုက်ခဲခြင်းသည်လည်း ဖြစ်၏၊ 'ငါ၏ရုပ်သည် ဤကဲ့သို့ ကျန်းမာ လှပစွာ ဖြစ်ပါစေ, မကျန်းမမာဘဲ ဆိုးဆိုးရွားရွား မဖြစ်ပါစေနှင့်'လို့ တောင့်တ၍လည်း မရနိုင်"။

## အဓိပ္ပာယ်ရှင်းလင်းချက်

"အတ္တဟာ မိမိကိုယ်နှင့် စပ်ဆိုင်ရာမှာ မိမိအလိုကျအောင် စီမံနိုင်၏"ဟု အတ္တစွဲလမ်းသူတို့က ယူဆကြသည့်အတိုင်း ရုပ်နာမ်သည် အတ္တဖြစ်နေလျှင် (သို့မဟုတ်) အတ္တရှိနေလျှင် အတ္တရုပ်သည် ခန္ဓာ၏ အနာရောဂါ မဖြစ်ခြင်းကို လိုလားပေလိမ့်မည်၊ သို့သော် ရုပ်ခန္ဓာကား အနာရောဂါ ကင်းကင်းရှင်းရှင်း မဖြစ်ဘဲ မကြာ မကြာ ရောဂါရုပ်တွေ ဖြစ်နေ၏၊ ထိုသို့ မကြာ မကြာ ရောဂါရုပ်တွေ ဖြစ်ရပုံကို ထောက်လျှင် ဤရုပ်ခန္ဓာသည် မိမိအလိုကျ စီမံနိုင်သော အတ္တလည်း မဟုတ်, အတ္တလည်း မရှိဟု သိသာလေသည်။ (ထို့အတူ ဝေဒနာ, သညာ, သင်္ခါရ, ဝိညာဉ်တို့ကိုလည်း စိစစ်ကြည့်ပါ။)

ဤသို့ ခန္ဓာငါးပါးလုံးကို တစ်ခုစီ စစ်ဆေးကြည့်သောအခါ စိုးပိုင်သော အစွမ်းသတ္တိလည်း မဟုတ်၊ ဒီခန္ဓာငါးပါးထဲမှာ အသက် ဝိညာဉ်ကောင်သည် မရှိဆိုတာတို့ ပေါ်လာပါလိမ့်မယ်။

ဒီအတ္တ အစွဲဟာ အလွန် နယ်ကျယ်ပြီး ခိုင်မြဲလှပါတယ်၊ စိုက်ဝင်နေအောင်လည်း စွဲနေတတ်ပါတယ်၊ ဒီအတ္တ ခံနေလို့လည်း လိုရင်းကို မရောက်နိုင်ဖြစ်နေကြတာပဲ။

## အတ္တဖျက်တရား အနတ္တသုတ်

ဒါကြောင့် ဗုဒ္ဓပွင့်တော်မူလာတော့ ဒီအယူဝါဒတွေကို ပထမဦးဆုံး တိုက်ဖျက်မယ်ဆိုပြီး ဝါဆိုလပြည့်နေ့မှာ ဓမ္မစကြာဟောပါတယ်၊ လပြည့်ကျော် ၁ ရက်၊ ၂ ရက်၊ ၃ ရက်၊ ၄ ရက်နေ့တို့မှာလည်း ဓမ္မစကြာကိုပဲ ထပ်ကာ ထပ်ကာ ဟောပြီးတော့ လပြည့်ကျော် ၅ ရက်နေ့မှာ ဒီအတ္တဖျက်တရား (အနတ္တသုတ်)ကို ဟောတော်မူတော့တာပဲ။

ဟိန္ဒူဝါဒဟာ ဗုဒ္ဓဝါဒနှင့် အလွန်နီးစပ်ပါတယ်၊ ဒါပေမယ့် ဒီနေရာမှာတော့ လမ်းခွဲကြတော့တာပဲ၊ ဟိန္ဒူဝါဒက အတ္တစွဲ အားကြီးတယ်၊ ဗုဒ္ဓဝါဒက အတ္တကို အမြစ်ပါမကျန် နုတ်ပြီး ဖြိုဖျက်ပစ်တယ်၊ အဲလို ကွာခြားတာ၊ မိုးနှင့်မြေကြီးလို၊ သမုဒ္ဒရာရဲ့ ဒီဘက်ကမ်းနှင့်ဟိုဘက်ကမ်းလို ကွာလှမ်းကြတော့တာပဲ။

ဘာ့ကြောင့် ဗုဒ္ဓရှင်တော်မြတ်က အတ္တကို ပယ်ရသလဲဆိုရင် အတ္တဆိုတာ အစစ်အမှန် မရှိလို့ရယ်၊ ပြီးတော့ ဒီအတ္တစွဲကြောင့် သတ္တဝါတွေ ဒီဘဝ သံသရာမှ မကျွတ်လွတ်နိုင်ဘူးဆိုတာရယ်ကို သေသေချာချာ သဗ္ဗညုတဉာဏ်တော်ကြီးဖြင့် အတိအကျသိတော်မူထားလို့ပါပဲ၊ ဒါကြောင့် အတ္တဖြုတ် တရား အနတ္တသုတ်ကို ဓမ္မစကြာအပြီးမှာ စောစော စီးစီး ဟောတော်မူရခြင်းပဲ ဒကာကြီး။

**ကျောင်းအုပ်ကြီး။** ။ဪ-ဒီလိုကိုး၊ အရှင်ဘုရားက အခုလို ထောက်ပြမှပဲ... အနတ္တလက္ခဏာသုတ်ကို စောစောစီးစီးဟောရတဲ့အကြောင်း၊ ပြီးတော့ ဒီအတ္တစွဲကို အရေးတကြီး ဖြုတ်သင့်တဲ့အကြောင်း ပိုပြီး သဘောပေါက်လာရပါတယ်။

**ဆရာတော်** ။ ။ဟုတ်တယ် ဒကာကြီး၊ ယောဂီပုဂ္ဂိုလ်တစ်ယောက်ဟာ ရုပ်နာမ် ခန္ဓာပေါ်မှာ ရှုမှတ်လို့ အနိစ္စနှင့် ဒုက္ခ ထင်မြင်လွယ်ပေမယ့် ... အနတ္တကျတော့ မထင်မြင်နိုင်ပဲ ရှိတတ်ပါတယ်၊ အတ္တစွဲ ကျန်နေတတ်ပါတယ်။

## အနတ္တဖြစ်တဲ့ နိဗ္ဗာန်ဆိုက်ဖို့ရန်

အတ္တစွဲကျန်နေလို့ အတ္တခံနေရင်လဲ လိုရင်းကို မဆိုက်နိုင်ဘဲ ဖြစ်နေပါ့မယ်၊ ဘယ်လိုဖြစ်မလဲဆိုရင် ရုပ်နာမ်ဓမ္မတွေ ပျက်ကြလို့ ဒုက္ခဖြစ်ကုန်ကြသော်လဲ (အနိစ္စ ဒုက္ခ ဖြစ်ကုန်ကြသော်လဲ) အမာခံ အထည်ကိုယ် အတ္တကလေးကတော့ မပျက်ဘဲ ကျန်နေသေးတယ်လို့ ယူဆနေဦးမယ်၊ ယူဆနေရင် အနတ္တ မဟုတ်သေးဘူးပေါ့၊ အနတ္တလို့ မယူနိုင်သေးသမျှလဲ အတ္တထင်မှတ်စရာ ခန္ဓာငါးပါးက မလွတ်နိုင်သေးဘူး၊ မလွတ်သေးသမျှ "အနတ္တ"ဖြစ်တဲ့ နိဗ္ဗာနဓာတ်သို့ မဆိုက်နိုင်သေးဘူး။

အမှန်စင်စစ်က ရုပ်နာမ်ဓမ္မတွေကို "အနိစ္စ ဒုက္ခ အနတ္တ"လို့ လက္ခဏာရေးသုံးပါးတင်၍ ပိုင်နိုင်စွာ ရှုမှတ်နိုင်တဲ့ သူတွေမှသာ သောတာပန် စတဲ့... အရိယာတွေ ဖြစ်ပြီး နောက်ဆုံးမှာ ရဟန္တာတွေအထိ ဖြစ်နိုင်တာ။

ဒါကြောင့်လဲ အနတ္တ အစစ်အမှန် ဖြစ်ပုံကို ရှုနိုင်ဖို့၊ အတ္တစွဲကို ဖြုတ်နိုင်ဖို့ ဗုဒ္ဓရှင်တော်မြတ်က ဟောတော်မူခြင်းပဲ ဒကာကြီး။

**ကျောင်းအုပ်ကြီး။** ။သာဓုပါဘုရား၊ တပည့်တော် ကျေးဇူးတင်ပါတယ်၊ ဝမ်းလဲ သာပါတယ်၊ ဒီ လာရတာ ကျေးဇူးများလှပါတယ်၊ နောက်လဲ လာခွင့်ပြုပါဘုရား။

**ဆရာတော်** ။ ။ခွင့်ပြုပါတယ် ဒကာကြီး...၊ နောက်လဲလာတာပေါ့၊ အခုလို



ရုရှားပါရဂူနှစ်ဦး

"ကြာကြာ ဆွေးနွေးနေရရင် ဒီကျောင်းတိုက်က မပြန်ချင်ဘဲနေလိမ့်မယ်"

တွေ့ကြရ၊ ဆုံကြရတာဟာ ဘဝသံသရာက ဆွေမျိုးမကင်းခဲ့ကြလို့ ဖြစ်ပါလိမ့်မယ်၊ ကဲ-ကဲ၊ နားကြဦးစို့။

ဤသို့လျှင် ဆရာတော် အရှင်ဇနကာဘိဝံသက ရှင်းလင်း ဟောပြမှုကို ရပ်နားလိုက်သော်လည်း ဆရာကြီးကမူ နေရာမှ မထသေး၊ ဆက်လက်မေးမြန်း နာယူလိုသေးဟန် ရှိနေသည်၊ ထိုအခိုက်တွင် တပည့်များက ဆရာကြီးကို လက်ဖက်ရည်သောက်ရန် လာ၍ ခေါ်ကြရာ…

"ဆရာတော်နှင့် ဆွေးနွေး မေးမြန်းနေရတာ အလျဉ်ပြတ်သွားလိမ့်မယ်၊ ငါ့အတွက် ဒီယူခဲ့ပါကွာ" ဟု ဆရာကြီးက ဆိုသည်။

ထို့နောက် သိချင်သော အချက်အလက်များကို ထပ်မံ မေး၍ အတော် စုံလင်အောင် နာယူပြီးမှ ပြန်သွားလေသည်။

# မည်သူတွေ နေ့စဉ်လာပြီး သန့်ရှင်းပါသလဲ

## ရုရှားပါရဂူနှစ်ဦးရောက်လာခြင်း

၁၉၇၁ ခု ဒီဇင်ဘာလ ၂၈ ရက်နေ့ ဖြစ်သည်၊ မန္တလေးတက္ကသိုလ်သမိုင်းကော်မရှင်မှ ဦးမောင်မောင်တင် ရှေ့ဆောင်၍ မဟာဂန္ဓာရုံကျောင်းတိုက်ထဲသို့ နိုင်ငံခြားသားနှစ်ဦး ဝင်လာကြ၏။

လက်ထောက်ကထိက ဦးလွင်အောင်က စကားပြန်အဖြစ် ပါလာသည်၊ ကလောင်ရှင် အမရပူရ ကိုပညာက အိမ်သည်အဖြစ် ညွှန်ပြရ၏၊ ဦးဆောင်သူများ၏ ပြောပြချက်အရ ရုရှားပါရဂူများဟု သိကြရသည်၊ (ဥရှကောဗ်နှင့် ရိုဒီယိုနောဗ်)တို့ ဖြစ်ကြ၏၊ ရန်ကုန်စက်မှုတက္ကသိုလ်မှ လာခဲ့ကြသည် ဆို၏၊ ဒေသန္တရဗဟုသုတအဖြစ် မန္တလေးသို့ ရောက်ခိုက်တွင် ကျောက်ခေတ်သစ်အခြေအနေကို လေ့လာရန် တောင်သမန်အင်းစောင်းသို့ ရောက်လာခြင်း ဖြစ်သည်။

နာမည်ကျော် မယ်ဇယ်ပင်တန်းကြီးနှင့် တောင်သမန်တံတား အဲ့တစ်ပါးကို ကြည့်ရှုကြပြီးလျှင် ဦးဆောင်သူများက မဟာဂန္ဓာရုံကျောင်းတိုက်သို့ပါ ခေါ်လာကြ၏၊ ရည်ရွယ်ချက်မှာ ထိုပါရဂူတို့သည် သာသနာ့ဝန်ထမ်းအချို့ကို ကြည့်ပြီး အထင်သေးနေခဲ့ကြသူများဟု ဆို၏၊ ထိုအထင်သေးမှုကို ချေဖျက်ရန် အိမ်ရှင်တို့က တမင် ခေါ်လာကြခြင်း ဖြစ်သတတ်။

သူတို့သည် ကျောင်းဝင်းကြီးထဲ ဝင်လိုက်ပြီဆိုရင်ပဲ "သိမ့်ခနဲ" "စိမ့်ခနဲ" ငြိမ်းချမ်းအေးမြသော အရသာကို ခံစားကြရဟန် ဖြစ်ပါသတဲ့၊ အံ့ဩသော မျက်နှာများဖြင့် တစ်ဦးကို တစ်ဦး ကြည့်ကြပါသတဲ့၊ အဘယ့်ကြောင့်ဆိုသော် ကျောင်းဝင်းမြေပြင်ကြီးက ကျယ်ဝန်းသလောက် အမှိုက်သရိုက် ဒိုက်မြက်ပင် တစ်ထွေး တစ်ဆုပ်မျှ မရှိခြင်း၊ သံဃာတော်များစွာ ရှိကြသော်လည်း တောရကျောင်းကြီးများပမာ တိတ်ဆိတ်ငြိမ်သက်လျက် သာယာနေခြင်း၊ စိမ်းစို ကြီးမားမြင့်မောက်သော သစ်ပင်ကြီးများဖြင့် အုပ်မိုးလျက်ရှိခြင်း စသည်တို့ကြောင့် ဖြစ်ပါလိမ့်မည်။

သန့်ရှင်း သာယာသော မြေပြင်၌ သူတို့ ဝတ်ဆင်လာသော ခြေနင်းများဖြင့် နင်းရမှာပင် အားနာသလို ဖြစ်ကာ ညစ်ပတ် ပေရေလာသော သူတို့ ခြေထောက်များကို လက်ညှိုးထိုး၍ ပြကြပါသတတ်။

ထို့နောက် "ဒီလောက်ကျယ်ဝန်းတဲ့ မြေပြင်ကြီးပေါ်မှာ ဒီလို သာယာအောင် ဘယ်သူတွေက နေ့စဉ်လာပြီး သန့်ရှင်းပါသလဲ"လို့လည်း လိုက်ပို့သူများအား မေးပါသတတ်။

## ချမ်းမြေ့မှုတစ်ခုမှာ သူတို့ထက်သာနိုင်

သာသနာတော်နှင့်ပတ်သက်၍ ပြုပြင်ရေးများကို ဆောင်ရွက်ရာတွင် ဆရာတော်က မှတ်ချက်ခုထားသည်၊ ကမ္ဘာ့အလယ်မှာ အဆောက်အအုံကြီးများ, စက်ရုံကြီးများ, တံတားကြီးများ, ယာဉ်ရထား မော်တော်ယာဉ်များ, သင်္ဘောကြီးများ, လေယာဉ်ပျံကြီးများ စသည်ဖြင့် ရုပ်ဝတ္ထု တိုးတက်အောင် ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံက ချမ်းသာသော မျက်နှာကြီးနိုင်ငံများထက် ကျော်လွန်ဖို့ ရင်ပေါင်တန်းဖို့ မပြောထားနှင့် မီအောင် အနားကပ်သွားအောင်ပင် လိုက်နိုင်ဖို့ မလွယ်ကူပေ။

သို့ရာတွင် မီရုံမက သူတို့တွေထက် သာနိုင်သော အချက်တစ်ခုကား ရှိပါသေး၏။ ယင်းကား...“ဆန္ဒပြည့်ဝ၍ စိတ်၏ငြိမ်းချမ်းရေးရခြင်း”ဟူသော နာမ်ဝတ္ထု တိုးတက်အောင် ဆောင်ရွက်ခြင်းကိစ္စပင် ဖြစ်ပါသည်။

မြန်မာနိုင်ငံမှာ ဗုဒ္ဓတရားတော်များ ကန်းအောင်းရပ်တည်လျက် ရှိကြ၍၊ ယင်း တရားတော်အရ ကျင့်သုံးလိုက်နာ နေထိုင်ကြပါလျှင် လူတိုင်းပင် ချမ်းမြေ့မှု ရနိုင်သည်၊ စိတ်ဆန္ဒ ပြည့်ဝ၍ ကျေနပ်မှု ရနိုင်သည်၊ သောကကင်းဝေး၍ အပူအေးနိုင်သည်။

လူတိုင်း၏ မျက်နှာတွင် ကြည်လင်၍ ရယ်နိုင်ပြုံးနိုင်ကြမည်၊ ဤကဲ့သို့ နာမ်တရား တိုးတက်ခြင်းကား သူတို့တွေထက် သာနိုင်သည်။

## ဗုဒ္ဓ၏ ကျောင်းတိုက်ကြီးလို

ဤမှုစနစ်ဖြင့် ဆရာတော်က မိမိ၏ကျောင်းတိုက်ကို ဖန်တီးထား၏၊ ဝင်လာသူအပေါင်း စိတ်ချမ်းမြေ့၍ ဆန္ဒပြည့်ဝစေရမည်၊ ငြိမ်းချမ်းစေရမည်၊ ဘီစီ ၆ ရာစုက ဗုဒ္ဓဘုရားရှင်၏ ကျောင်းတိုက်ကြီးကဲ့သို့ တည်ငြိမ်ရမည်, အေးဆေးရမည်, သန့်ရှင်းရမည်, တိတ်ဆိတ်ရမည်ဟူသော မူဖြင့် ပြုပြင်ထားသည်၊ ထို့ကြောင့်လည်း ဤပါရဂူတို့မှာ ကျောင်းတိုက်ထဲ ဝင်ကတည်းက သူတို့၏ အမူအရာရေအသံများပါ တိုးတိတ်ညင်သာသွားခြင်း ဖြစ်ရတော့သည်။

ဆရာတော်ထံရောက်၍ သူတို့ သိချင်သမျှကို မေးကြ၏၊ “ဤသို့ ကျောင်းတိုက်ကြီး သာယာအေးချမ်းဖွယ်ဖြစ်အောင် သန့်ရှင်းအောင် မည်သူတွေ လာ၍ ဆောင်ရွက်ပေးပါသလဲ”ဟု ရင်ထဲမှာ တွေ့ထိရသမျှကို စတင်မေးတော့သည်၊ ဆရာတော်ကလည်း... “တခြားကလာပြီး သန့်ရှင်းသူရယ်လို့ မရှိပါ၊ မာလီအလုပ်သမား ငှားရမ်းထားသူဟူ၍လည်း မရှိပါ၊ ဤကျောင်းတိုက်ကြီးမှာ နေကြတဲ့ ရဟန်းများ, သာမဏေများ, သူတော်ကလေးများပါ အားလုံး စုပေါင်း၍ နေ့စဉ်နေ့တိုင်း သန့်ရှင်းရေးလုပ်ကြရပါတယ်၊ တံမြက်လှည်းတဲ့အခါ ဖုန်မထအောင် စာလာ ပေလာအတိုင်း ရေဖျန်းပြီးမှ လှည်းစေပါတယ်၊ ရှင်တော်ဗုဒ္ဓက သန့်ရှင်းမှုကို အလွန် လိုလားတော်မူပါတယ်၊ တံမြက်လှည်း၍ သန့်ရှင်းမှုကြောင့် ရနိုင်တဲ့ လက်ငင်းအကျိုးတို့ကို ဟောပြထားချက်များ ရှိပါတယ်၊ ဒီနည်းနှင့်ပဲ သန့်ရှင်း သာယာနေခြင်း ဖြစ်ပါတယ်”...ဟူ၍ ဖြေတော်မူ၏။

## အရှင်သာရိပုတ္တရာ တံမြက်မလှည်းမိ၍

ဟုတ်ပါသည်၊ ဤကဲ့သို့ ကျောင်းတိုက်အတွင်း (သို့မဟုတ်) မိမိနေရာဝန်းကျင်အတွင်း၌ သန့်ရှင်းအောင် တံမြက်လှည်းခြင်းသည် သာသနာပြုခြင်း တစ်မျိုးပင် ဖြစ်ပါ၏၊ ဗုဒ္ဓရှင်တော်မြတ်၏ အလိုဆန္ဒကို ဖြည့်ရာလည်း ရောက်သည်၊ ဗုဒ္ဓ၏ စကားကို လေးစားလိုက်နာရာလည်း ရောက်သည်၊ လေးစားလျှင် သာသနာပြုခြင်းတစ်မျိုးပင် ဖြစ်တော့သည်။

* တစ်ခါက လက်ယာတော်ရံ အရှင်သာရိပုတ္တရာ ကိုယ်တော်မြတ်ကြီး တံမြက်မလှည်းမိဘဲ ဖြစ်သွား၏၊ ခါတိုင်း ကျောင်းတိုက်ထဲမှာ သံယာအများနှင့်

---

* ပရိဝါအဋ္ဌကထာ, ကေ့ဏ္ဍကနယ, ပဋ္ဌက – ၁၅၅။

နေလျှင် တံမြက်လှည်းနေကျ ဖြစ်ပါသည်၊ ယခု တောင်ကြို ချောက်ကြား၌ တစ်ပါးတည်း ဖြစ်၍ တံမြက်လှည်းမှုကို လျစ်လျူရှုမိခြင်း ဖြစ်သွား၏။

နိရောဓသမာပတ်ဝင်စားရန် တိတ်ဆိတ်စွာ ပဓာနမဏ္ဍာ တောင်ကြိုချောက်ကြားအရပ်သို့ ချဉ်းကပ် ခဲ့ပြီး လူသူမနီး တော်မြိုင်ကြီးဖြစ်၍လည်း တံမြက် လှည်းရန် အရေးမကြီးဟု ယူဆခဲ့မိ၏၊ ထို့ကြောင့် သစ်ရွက်အမှိုက်များ ပြန့်ကျဲနေသော နေရာတွင် အေးဆေးစွာ နိရောဓသမာပတ်ဝင်စား၍ နေလိုက် သည်။

နိရောဓသမာပတ်ဝင်စားနေချိန်၌ ဘာမျှ မသိ, စိတ် စေတသိက်နှင့် စိတ်ကြောင့်ဖြစ်သော အချို့ ရုပ်များ ချုပ်ငြိမ်းနေခဲ့၏၊ ခံစားမှုဟူသမျှလည်း ရုပ်သိမ်းနေခဲ့၏၊ သို့သော် နိရောဓသမာပတ်မှ ထသောအခါတွင်ကား အံ့အားသင့်စွာ ဖြစ်ရပါလေ ပြီ၊ ပြန့်ကျဲနေသော အမှိုက်သရိုက်များကြားတွင် ဘုရားရှင် ကိုယ်တော်မြတ်၏ ခြေတော်ရာကို ဘွားဘွားကြီး တွေ့လိုက်ရသောကြောင့်ပါတည်း။

"အလို ... နိရောသမာပတ် ဝင်စားနေချိန်မှာ ဘုရားကိုယ်တော်မြတ် ရောက်လာတာပါတကား၊ ငါတံမြက်မလှည်းဘဲ နေမိသည်ကို သိသွားချေပြီ" ဟု နောင်တကြီးစွာ ဖြစ်ရတော့၏၊ ရှက်လည်း ရှက် မိသည်၊ ဘုရားရှင်၏ အဆုံးအမကို တစ်သဝေ မတိမ်း လိုက်နာနေကျ အရှင် သာရိပုတ္တရာသည် ထိုနေ့မှာကား တံမြက်လှည်းဝတ် ပျက်ကွက်သွား ခဲ့၏၊ စိတ်မလုံမလဲဖြစ်ကာ နောင်တကြီးစွာလည်း ဖြစ်ရလေသည်၊ ထို့နောက်တွင်ကား နေ့စဉ် ဝတ် မပျက် တံမြက်လှည်း၍ ပရိနိဗ္ဗာန်စံဖို့သွားခါနီးအထိ ဝတ်ပျက်မခံတော့ပေ။

ဤအဖြစ်အပျက်ကလေးတို့ကို ဆရာတော်က သတိထား၍ အသေးအမွှားဟု မယူဆဘဲ သာသနာ တစ်လျှောက် "ထုံး"တစ်ခု တွင်ရစ်အောင် ဘုရား ရှင်က စံပြခြင်း ဖြစ်လေသည်ဟုသာ အလေးအမြတ် ထား၍ ကြိုးစားလိုက်နာခြင်း ဖြစ်လေသည်။

ထို့ကြောင့် ကျောင်းတိုက်နှင့်ဝန်းကျင်အတွင်း သန့်ရှင်းအောင် အမြဲ သတိပေးတော်မူ၏။

## ရှုရှားပါရဂူတို့၏ မေးခွန်းနှင့်ဆရာတော့်အဖြေများ

ထို့နောက် ရှုရှားပါရဂူတို့သည် သူတို့သိလိုသော အချက်တို့ကို ဆရာတော့်ထံ ဆက်လက်မေးကြပြန် ၏၊ ဆရာတော်ကလည်း စိတ်အေး ကိုယ်အေးဖြင့် ဖြေကြားပေးတော်မူသည်၊ ထို့ကြောင့် မေးဖူးသူ ပြဿနာရှင်တိုင်းက ပြောတတ်ကြသည်မှာ "ဆရာ တော်က မေးခွန်းရှင်များကို မထီမဲ့မြင် သဘော မထားတတ်ဘူး, စိတ်ဝင်တစားနှင့် အလေးထားပြီး မေးသူများ ကျေနပ်အားရသည်အထိ ဖြေကြားပေး လေ့ရှိတတ်တယ်"ဟူ၍ ဖြစ်ပေသည်။

**ပါရဂူ** ။ ။ ယနေ့ သံဃာတော်တွေ ၄၀၀ ကျော် ရှိတယ်ဆိုတော့ ဒီသံဃာတွေကို ခုလို ငြိမ်သက်တည်ကြည်နေအောင် ဘယ်လို အုပ်ချုပ်ထားပါသလဲ။

**ဆရာတော်** ။ ။ ဘုရားဥပဒေတော်နှင့် အုပ်ချုပ်ထား ပါတယ်၊ ဒီ သာသနာတော်အတွင်း ရောက်လာတဲ့ပုဂ္ဂိုလ်အားလုံး ဘုရား အဆုံးအမတွေကို သင်ယူကြရပါ တယ်။ သင်ယူလို့ ဘုရားအဆုံးအမ တွေ နှလုံးအိမ်၌ ကိန်းကြပြီ၊ လိုက်နာ ကျင့်သုံးကြပြီဆိုရင် ကိုယ်နှုတ်စိတ် များဟာ အလိုလို သိမ်မွေ့နူးညံ့လာ တတ်ပါတယ်၊ နူးညံ့လာရင် ငြိမ်သက် တည်ကြည်လာတော့တာပါပဲ။

**ပါရဂူ** ။ ။ ဘာကြောင့် ဝတ်ရုံတဲ့ သင်္ကန်းများကို အခုလို နီညိုရောင်, တချို့ ကျောင်း တိုက်တွေက ဝါဝါအရောင်တွေဆိုးပြီး ဝတ်ကြတာပါလဲ?။

**ဆရာတော်** ။ ။ ဒီအရောင်တွေဟာ သစ်ခေါက်ဆိုး ရောင်တွေပါ၊ ဘုရား မပွင့်မီကပဲ တောထွက်တရားကျင့်တဲ့သူတွေဆိုးပြီး ဝတ်လေ့ရှိကြပါတယ်၊ ဒီအရောင် တွေက နှစ်သက်မှု တပ်မက်မှုကို

ကင်းစေပါတယ်၊ အရောင်ချင်းတူတော့ တစ်ပါးနှင့်တစ်ပါး ယှဉ်ပြိုင်မှု မရှိဘူး၊ သွေးစည်းညီညွတ်မှုကိုလဲ ရစေပါတယ်၊ ညစ်ပတ်တဲ့ ပေရေမှုကိုလဲ ခံနိုင်ပါတယ်၊ နောက် တစ်ကြောင်းက တည်ငြိမ် စူးရှထက်မြက်တဲ့ အသိဉာဏ်ကို ဖြစ်ထွန်းစေပါတယ်၊ ... ဒီအကြောင်းတွေကြောင့် သူတော်ကောင်းလက္ခဏာအဖြစ် ဒီအရောင်ကို ရွေးကြခြင်း ဖြစ်ပါတယ်။

**ပါရဂူ** ။ ။ ဗုဒ္ဓတရားတော်တွေ ပြန့်ပွားအောင် ဘယ်လို ဖြန့်ပါသလဲ။

**ဆရာတော်။** ။ ရှေးတုန်းကတော့ မြန်မာနိုင်ငံတစ်ခုလုံးရဲ့ ပညာရေးဟာ ဘုန်းကြီးတွေ လက်ထဲမှာ ရှိခဲ့ပါတယ်၊ ပေါက်ဖွားလာတဲ့ ကလေးတွေ အားလုံးဟာ ပညာသင်ကြားရာ ဘုန်းကြီးကျောင်းကို ရောက်ကြရတာချည်းပဲ၊ ဘုန်းကြီးတွေက လူ့ဘဝမှာ နေထိုင်လုပ်ကိုင်စားသောက်နိုင်အောင် သက်မွေးမှု ပညာရပ်တစ်မျိုးမျိုးကို သင်ပေးလိုက်ကြပါတယ်၊ အတန်းမြင့်လာသူများကိုတော့ ဗုဒ္ဓတရားတော်များကိုပါ အပို သင်ပေးလိုက်ကြပါတယ်၊ ဒီနည်းနှင့်ပဲ ဗုဒ္ဓတရားတော်တွေ ပြန့်ပွားအောင် ဖြန့်ပေးပါတယ်။

**ပါရဂူ** ။ ။ ယခုအခါ ရဟန်းတော်များရဲ့ ပြင်ဘက်ကမ္ဘာမှာ အစစအရာရာ တိုးတက်ပြောင်းလဲနေပါတယ်။

ဥပမာ-ကွန်ပျူတာတွေ, ဂြိုဟ်တုတွေ, ဒုံးပျံတွေနှင့် နောက်ဆုံး သိပ္ပံပညာရဲ့ စွမ်းအားနှင့် လ ပေါ်ကို တောင်ရောက်နေပါပြီ၊ ဒီလိုတိုးတက်နေတာတွေကို ဘယ်လိုမြင်ပါသလဲ။

**ဆရာတော်။** ။ မှန်ပါတယ်, သပ္ပံပညာတွေ တိုးတက်လို့ အစားအသောက်ကောင်းတွေ စားရ, အဝတ်ကောင်းတွေ ဝတ်ရ, အနေအထိုင်ကောင်းတွေ နေရတာ မှန်ပါတယ်၊ ရုပ်ဝတ္ထုဘက်က သိပ်တိုးတက်ကြပါတယ်၊ ဒါပေမယ့် အကျင့်စာရိတ္တဘက်က(နာမ်တရားဘက်က) တိုးတက်မှု နည်းကြလို့ စိတ်ချမ်းသာမှုတော့ အပြည့်အဝ ရကြလိမ့်မည် မထင်ပါ၊ ဗုဒ္ဓတရားတော်တွေကိုပါ သိပြီး လိုက်နာကျင့်သုံးကြမှ အေးချမ်းမှု ရကြပါလိမ့်မယ်လို့ မြင်ပါတယ်။

**ပါရဂူ** ။ ။ သိပ္ပံပညာရပ်တို့ရဲ့ အဆုံးပိုင်းကို ဘယ်လိုမြင်ပါသလဲ?။

**ဆရာတော်။** ။ ဒါကတော့ ဗုဒ္ဓတရားတော်အတိုင်းပဲ မြင်ပါတယ်၊ နောက်ဆုံးမှာ အားလုံး ကုန်ဆုံးပျက်စီးကြရမှာပဲ။

ဤသို့ စသောမေးခွန်းများကို မေး၍ ဆရာတော်ကလည်း မေးတိုင်းဖြေ၍ ကျေနပ်သည့်အမူအရာများကို ပြကြသည်။

ဆရာတော်မိန့်သလိုပင် ...

"ကမ္ဘာအရပ်ရပ်၌ ရုပ်ဝတ္ထုတွေ ဘယ်လောက်ပင် တိုးတက်နေသော်လဲ အတွင်းပိုင်း နာမ်တရားများ မတိုးတက်ပါက အပြည့်အဝ ကျေနပ်မှု, အပြည့်အဝ ချမ်းမြေ့မှု ရမည်မဟုတ်ပေ"ဟူသော အချက်ကို လက်ခံသည့်အသွင် ပါရဂူတို့ ခေါင်းတဆတ်ဆတ် ညိတ်နေကြသည်၊ တွေးခေါ် စဉ်းစားသည့်အမူအရာကိုလည်း ပြနေကြသည်။

ဟုတ်ပါသည်၊ ယခု လက်တွေ့ပင်လျှင် ချမ်းမြေ့သာယာသည့် ဤကျောင်းတိုက် တောအုပ်မြိုင်တွင်းသို့ ရောက်နေခိုက်မှာ အေးဆေးငြိမ်းချမ်းသည့် အရသာကို သူတို့ ခံစားနေကြရသလို ဖြစ်နေပါ၏၊ ကျေနပ်နေသည့် လက္ခဏာကို ဖော်ပြနေကြသည်။

## မပြန်ချင်ပဲနေလိမ့်

ရုရှားပါရဂူတို့က "မေးခွန်းတွေ များများမေး၍ အကြောင်းအရာတွေ များများ ဆွေးနွေးချင်သည်" ဟု ဆိုကြသည်၊ "ဤကျောင်းတိုက်ကို လာရတာ စိတ်ထဲမှာ ချမ်းမြေ့အေးငြိမ်းနေပါသည်၊ သို့ရာတွင် တာဝန်တွေ ရှိသေးသဖြင့် များများ မမေးနိုင်ပါ၊ ကြာကြာဆွေးနွေးပြီး မနေနိုင်ပါ"ဟု ပြောကြသည်။

ထို့နောက်မှ "များများမေး၍ ကြာကြာမဆွေးနွေး ရတာပဲ ကောင်းပါတယ်လေ, အဲလို အခွင့်အရေးတွေ ရနေလို့ရှိရင် ဒီကျောင်းတိုက်ကြီးက မပြန်ချင်ဘဲ နေလိမ့်မယ်"ဟု ခပ်ရွှန်းရွှန်းပြော၍ ရယ်မောနေကြတော့သည်၊ ပြန်ခါနီးတွင် ဆရာ ဦးမောင်မောင်တင်ထံ မြန်မာတို့၏ ယဉ်ကျေးမှုအသုံးအနှုန်းကို မေးမြန်းသင်ကြား၍ "ဦးတင်ပါသည်ဘုရား" ဟူ၍ပင် ဆိုသွားကြလေသေးသည်။

## အမှိုက်ထွေးထဲက ဉာဏ်ပညာတွေ တူးဖော်ယူကြ
### ယုံချင်အောင် ပုံပြင်နှင့်ပြော

ဆရာတော် အရှင်ဇနကာဘိဝံသက နံနက်စောစောသြဝါဒပေးရာတွင် အများအားဖြင့် စိတ်ကောင်းရှိဖို့, သီလလုံခြုံအောင် စောင့်စည်းတတ်ဖို့, ဝိနည်းလေးစားတတ်ဖို့, အဝတ်အရုံ ချပ်ချပ်ရပ်ရပ်နှင့် ကြည်ညိုဖွယ်ဖြစ်အောင် ဝတ်တတ်ဖို့, ဣန္ဒြေရရ အသွားအလာ အနေအထိုင်တတ်ဖို့, အပြောအဆို ပြေပြစ်ဖို့, ယဉ်ကျေးဖို့အပြင် တစ်ခါတလေ သန့်သန့်ရှင်းရှင်း နေတတ်ကြဖို့ကိုလည်း အောက်ပါအတိုင်း မိန့်တတ်ပါသည်။

"ဦးပဥ္စင်းတို့, ကိုရင်တို့... ဒီက ပြန်ရင် ကိုယ့်ကျောင်းဝန်းကျင်သန့်ရှင်းရေးလုပ်ကြ, တံမြက်လှည်းကြ, ဒီအလုပ်တွေဟာ ဘုရားရှင်ချီးမွမ်းတော်မူတဲ့ အလုပ်တွေလဲ ဖြစ်တယ်၊...ခန္ဓာကိုယ်နှင့်တကွ ပတ်ဝန်းကျင်သန့်ရှင်းနေရင် စိတ်ကြည်လင်တယ်၊ စိတ်ကြည်လင်တော့ ဉာဏ်တွေ တက်လာတယ်၊ ဉာဏ်တက်လာခြင်းရဲ့အကြောင်းတွေပေါ့။

ပြီးတော့ မိလိန္ဒမင်းကြီးနှင့် အရှင်နာဂသိန်တို့ တစ်ဦးနှင့်တစ်ဦး ခက်ခဲတဲ့ ပြဿနာတွေ မေးနိုင်ကြတယ်, ဖြေနိုင်ကြတယ်ဆိုတဲ့ ပညာတွေဟာ ဒီ အမှိုက်ထွေးတွေကို ရှင်းရာက စတာပဲ။ အမှိုက်ထဲက ရတယ်ဆိုပါတော့"။

ဤသို့ စသည်ဖြင့် စိတ်ဝင်စားဖွယ် မျက်လုံးကျယ်စေတဲ့ ပုံပြင်ဇာတ်ကြောင်းကလေးများဖြင့် တန်ဆာဆင်ကာ မိန့်တတ်ပါသည်။

အမိန့်အာဏာဖြင့် "တံမြက်လှည်းကြ"ဟူ၍ တုံးတိတိကြီး မခိုင်းတတ်ပါ၊ တံမြက်လှည်းချင်လာအောင် သာဓကကလေးများဖြင့် ပုံဆောင်၍သာ မိန့်တတ်ပါသည်။

## အတိတ်ဟောင်းက သူတို့နှစ်ဦး

မြတ်စွာဘုရား ပရိနိဗ္ဗာန်ပြုပြီးနောက် နှစ်ပေါင်း ၅၀၀ လောက်အကြာမှာ "သာဂလ"ဆိုတဲ့မြို့ကြီးမှာ မိလိန္ဒမင်းကြီး နန်းစံတယ်၊ အဲဒီမင်းကြီးက ဉာဏ်ပညာ သိပ်ကြီးတာပဲတဲ့၊ လောကီ လောကုတ္တရာ ခဲရာခဲဆစ် ပြဿနာတွေကို တယ် မေးတတ်တဲ့ မင်းကြီး။

ရဟန်းပညာရှိ, လူ ပညာရှိတွေကို မေးလွန်းလို့ တချို့က သူနှင့် ဝေးဝေးရှောင်ကြသတဲ့၊ သူ့ကိုပဲ ကြောက်ကြောက်နေကြရတယ်၊ သူမေးတာ မဖြေနိုင်ဘူးဆိုရင် သူက သရော်တတ်လွန်းလို့, လှောင်တတ်လွန်းလို့ ဒါ့ကြောင့် သူ့ကို ရွံ့ကြောက်ကြီးကြောက်ပြီး ဝေးဝေးက ရှောင်ကြတာ။

တစ်နေ့တော့ "အရှင်နာဂသိန်"ဆိုတဲ့ ရဟန်း ပညာရှိနှင့် တွေ့ကြတယ်၊ သူနှင့်မတွေ့ခင် အရှင်နာဂသိန်က ပြောတယ်၊... "အောင်မယ်၊ အမှိုက်ကလေး ကျုံးရတဲ့သူက ပညာမာန်စွယ်ကလေး တထောင်ထောင်နှင့် တွေ့ကြရမှာပေါ့" လို့ မိန့်သတဲ့။

"မင်းကြီးရဲ့ အမေးပြဿနာတွေကို ဖြေဆိုမည့် အရှင်နာဂသိန် ပေါ်လာပြီ"လို့ ကြားလိုက်ကတည်းက မင်းကြီးမှာလည်း ကြက်သီးမွေးညင်းတွေ တဖြင်းဖြင်း ထသွားမိသတဲ့၊ ဓာတ်ခိုက်ကြတာ။

## သူတို့ ကိုယ်စီဆုတောင်းခဲ့ကြ

သူတို့ဇာတ်ကြောင်း အတိတ်ပောင်းက ဒီလိုလေ၊ ကဿပမြတ်စွာဘုရားလက်ထက်တုန်းက ဂင်္ဂါမြစ်ကမ်းနားမှာ ကျောင်းတိုက်ကြီးတစ်ခု ရှိတယ်၊ မနက်စောစော နေထွက်ပြူစအချိန် ရဟန်းတွေက တံမြက်လှည်းပြီးတော့ အမှိုက်ပုံကို ကျုံးပစ်ဖို့ ကိုရင်တစ်ပါးကို ခိုင်းတယ်။

အဲဒီ ကိုရင်က မကြားချင်ဟန်ဆောင်နေတယ်၊ တစ်ခါခေါ်လဲ မရ၊ နှစ်ခါခေါ်လဲ မရ၊ သုံးခါခေါ်လဲ မကြားချင်ယောင်ဆောင်နေတော့ အဲဒီ ကိုယ်တော်က တံမြင်စည်းနှင့် ကိုရင်ကို ခေါက်လိုက်တယ်၊ ဒီတော့မှ ကိုရင်လဲ ငိုယိုပြီး အမှိုက်တွေကို ကျုံးပြီး ဂင်္ဂါမြစ်ကမ်းနားကို သွားစွန့်ပစ်တယ်၊ စွန့်ပစ်ရင်း ကိုရင်က ဆုတောင်းတယ်... "သည် ကောင်းမှုကြောင့် ယခုထွက်ပြူလာတဲ့ အရှေ့လောကဓာတ်က နေမင်းကြီးလို ဉာဏ်ပညာ အရှိန်အဝါ ကြီးရပါလို၏၊ ဂင်္ဂါမြစ်ထဲက လှိုင်းတံပိုးတွေလိုလဲ တစ်ဖက်သားကို အမေးပုစ္ဆာတို့ဖြင့် ချောက်ချားနိုင်ရပါလို၏"

အဲဒီ...ရဟန်းက သူ့ဆုတောင်းသံကို ကြားတော့ "အံမယ် ငါက ခိုင်းမှ မလုပ်ချင့်လုပ်ချင် အလုပ်လုပ်ရတဲ့သူကတောင် သည်မျှလောက် ဆုတောင်းရင် ငါက စေတနာနှင့် အလုပ်လုပ်ခဲ့သူပဲ၊ သူ့ထက်ပိုရမှာပေါ့၊ သူမေးသမျှ ပြဿနာတွေကို ဖြေဆိုနိုင်စွမ်းရှိတဲ့အပြင် ဇမ္ဗူဒိပ်တစ်ခွင်လုံးကို လွှမ်းမိုးနိုင်တဲ့ ပညာစွမ်းရှိရပါလို၏"လို့ ဆုတောင်းလိုက်ပြန်တယ်။

## အမှိုက်ထဲက ဉာဏ်တွေရ

အဲလိုနှင့် အသက်တမ်းအတိုင်း နေကြပြီးတော့ ဘုရားနှစ်ဆူကြားကာလမှာ လူ့ပြည် နတ်ပြည် စုန်ဆန်ခဲ့ကြတယ်၊ စုန်ဆန်ပြီးတဲ့နောက် အခုလို တို့ဘုရားသာသနာ ၅၀၀ ကျော်မှာ အမှိုက်ကျုံးခဲ့တဲ့ ကိုရင်က မိလိန္ဒမင်းကြီးအဖြစ်နှင့် ပေါ်လာတယ်၊ တံမြက်လှည်းခဲ့တဲ့ ရဟန်းက အရှင်နာဂသိန်ဖြစ်လာခဲ့တယ်၊ သူတို့ ဆုတောင်းတွေက အဲလို။

သူတို့ ဆုတောင်းတဲ့အတိုင်း ပြည့်ကြလို့ မိလိန္ဒမင်းကြီးကလဲ ကပ်ကပ်သပ်သပ် မေးတတ်ပါတယ်၊ အရှင်နာဂသိန်ကလဲ ဝဂ်ဝက်ကွဲအောင် ဖြေကြားနိုင်ပါပေတယ်။

မိလိန္ဒမင်းကြီးက ဂင်္ဂါမြစ်ထဲက လှိုင်းလုံးကြီးတွေပမာ တစ်ဖက်သားကို ချောက်ချားသွားစေအောင် မေးနိုင်သလို အရှင်နာဂသိန်ကလဲ ကောင်းကင်ကရွာချတဲ့ မိုးကြီးပမာ ပြဿနာဟူသမျှ တစ်ခုမကျန်မျောပါလွင့်စင်ကုန်အောင် ဖြေဆိုနိုင်စွမ်း ရှိပါပေတယ်၊ ဒါတွေဟာ အရင်းစစ်ရင် "မိလိန္ဒမင်းကြီးရော အရှင်နာဂသိန်ရော သူတို့ ရရှိကြတဲ့ ဉာဏ်ပညာတွေဟာ အမှိုက်ထဲက ရကြခြင်းပဲလို့ ဆိုနိုင်တာပေါ့၊ ဒါကြောင့် ဦးပဉ္စင်းတို့ ကိုရင်တို့ တံမြက်လှည်းကြ၊ အမှိုက်လဲ ကျုံးကြ၊ ဆုလဲတောင်းကြ"ဟူ၍ မိန့်တတ်ပါသည်။

## "နတ်သမီးတွေ, နတ်သမီးတွေ"

ဤသို့ အမိန့်ရှိသောအခါ ဦးပဥ္စင်း ကိုရင်တို့ အားလုံး ရွှင်ပြုံးလန်းဆန်းနေကြတော့၏၊ ထို့ပြင် ဆရာတော်က အပိုအဆစ် ဖြည့်စွက်၍ မိန့်တတ်ပါသေးသည်၊ "ကဲ-ကိုရင်တို့ ဘယ်လောက်အားကျဖို့ကောင်းသလဲ၊ ဒီပဲရင်း ဆရာတော်ဘုရားကြီးက ဆိုရင် ကျောင်းတိုက်ထဲ လှည့်ပတ်သွားလို့ အမှိုက်ပုံကလေးများ တွေ့ပြီဆိုပါက "ကိုရင်, လာစမ်းဟဲ့, ဟောဒီမှာ နတ်သမီးတွေ နတ်သမီးတွေ"လို့များတောင် မိန့်တတ်သတဲ့။

ခွေးချေးပုံ နွားချေးပုံ စတဲ့ အညစ်အကြေးများ တွေ့ပြီဆိုရင်လဲ "ကိုရင်-ဟောဒီမှာ ရွှေခဲတွေ ငွေခဲတွေ"လို့ မိန့်တတ်ပြန်သတဲ့။

ဆိုလိုတဲ့ အဓိပ္ပာယ်ကတော့ ခွေးချေး နွားချေး စတဲ့ အညစ်အကြေးတွေကို သုတ်သင်ရှင်းလင်းပစ်ရရင် ကုသိုလ်တွေ ရတယ်၊ အဲဒီကုသိုလ်တွေဟာ ရွှေခဲ ငွေခဲတွေလို တန်ဖိုးကြီးတယ်လို့ ဆိုလိုတာပေါ့။

တစ်ခါ အမှိုက်ပုံတွေကို ကျုံးပစ်ရင်လဲ နတ်ပြည်ကို ရောက်မယ်, နတ်ပြည်ရောက်ရင် နတ်သမီးကလေးတွေ ရမယ်ပေါ့၊ ဒါကြောင့် ဆရာတော်ကြီးက အမှိုက်ပုံတွေကိုပဲ လက်ညှိုးထိုးပြပြီး "နတ်သမီးတွေ, နတ်သမီးတွေ"လို့ မိန့်တော်မူတာ။

ဤသို့လျှင် အပြီးသတ် ခပ်ရွှန်းရွှန်း ဩဝါဒပေးတတ်သဖြင့် အားလုံးပင် ပြုံး၍ ကျေနပ်နေတတ်ကြတော့သည်။

## သီရိလင်္ကာ ယဉ်ကျေးမှုဝန်ကြီးရောက်လာခြင်း

### ဗုဒ္ဓယဉ်ကျေးမှုနှင့် ဧည့်ခံရမှာပဲ

"ယခုလာမယ့် ၁၃၂၈ ခု ဒုတိယဝါဆိုလဆန်း ၅ ရက်နေ့မှာ ဒီကျောင်းတိုက်ကို သီဟိုဠ် (သီရိလင်္ကာ)က ယဉ်ကျေးမှုဆိုင်ရာဝန်ကြီး ရောက်လာမယ်လို့ ဆိုင်ရာဒကာတွေ မနေ့တုန်းကလာလျှောက်ကြတယ်၊ ယဉ်ကျေးမှုဝန်ကြီးပဲဖြစ်ဖြစ်, သုတေသနဝန်ကြီးပဲဖြစ်ဖြစ်, ဘယ်သူပဲဖြစ်ဖြစ် လာပါစေ, ဘုန်းကြီးတို့က ဘုရားရှင် ကိုယ်တော်မြတ်ရဲ့ ယဉ်ကျေးမှု-ဗုဒ္ဓယဉ်ကျေးမှုနှင့် ဧည့်ခံနိုင်ပါတယ်။

ကမ္ဘာ့ယဉ်ကျေးမှုဆိုတာတွေ ဘယ်လောက်ပဲ ကောင်းကောင်း ဗုဒ္ဓယဉ်ကျေးမှုကိုတော့ မမီနိုင်ပါဘူး၊ လွန်ခဲ့တဲ့တစ်နှစ်ကလဲ အင်္ဂလန်က ပရိုဖက်ဆာကြီးဆိုတာ လာခဲ့ဖူးတယ်၊ ဘုန်းကြီးက ဗုဒ္ဓယဉ်ကျေးမှုနှင့် ဧည့်ခံလိုက်တာပဲ" ဤသည်ကား ယနေ့အဖို့ နံနက်ခင်းဩဝါဒကို စတင်လိုက်ခြင်းပင် ဖြစ်သည်။

"အဲဒီ အင်္ဂလန်က ပရိုဖက်ဆာဆရာကြီး လာတုန်းကလဲ သူလာတော့မယ်ဆိုတော့ ဘုန်းကြီးက သူမလာခင်ကတည်းက မေတ္တာကြိုပို့နေခဲ့တယ်၊ မေတ္တာစစ်စစ် သန့်သန့် ပို့နေခဲ့တယ်၊ ဒါဟာ ဗုဒ္ဓယဉ်ကျေးမှုအရ နေတာပဲ။ အဲဒီနောက် သူရောက်လာလို့ သူမေးလိုတာမေး, ဘုန်းကြီးကလဲ ဖြေနှင့် အဲလိုနေကြလို့ အတော်ကြာတော့ ဆိုင်ရာပုဂ္ဂိုလ်များက ထမင်းစားဖိတ်ထားတဲ့နေရာကို သွားဖို့ အချိန်ကျပါပြီ"လို့ပြောကြတယ်၊ ဒီတော့ သူ့လက်ကနာရီကိုမြှောက်ကြည့်ပြီး "အို-ဟုတ်လား, ပြန်တောင်မပြန်ချင်သေးဘူး"လို့ဆိုပြီး "ဆရာတော် အမိန့်ရှိလိုတာကို ၁၀ မိနစ်လောက် မိန့်ပါဦး"လို့ လျှောက်ပြန်တယ်၊ ဒီတော့ ဘုန်းကြီးက "အရာခပ်သိမ်းဟာ အနိစ္စချည်းဖြစ်တဲ့အကြောင်းရယ်, မေတ္တာပွားဖို့ရယ် ပြောလိုက်ပါသေးတယ်"။

အခု ဦးပဥ္စင်းတို့ ကိုရင်တို့ဟာ ကံကောင်းထောက်မလို့ ဒီဗုဒ္ဓယဉ်ကျေးမှုတွေနှင့်တွေ့နေရပါပြီ၊ အထိုက်လျောက်လဲ ရနေကြပြီ, ဒါကို တန်ဖိုးထားကြပါ၊ ပေါ့ပေါ့လေး မအောက်မေ့ကြပါနှင့်၊ ဗုဒ္ဓယဉ်ကျေးမှုဟာ အလွန်အဆင့်အတန်း မြင့်တယ်ဆိုတာ လက်တွေ့ ကျင့်သုံးကြည့်ဖို့ကောင်းတယ် သီလကို လုံခြုံအောင် စောင့်စည်းပါ၊ ကိုယ်နှုတ်စိတ်ကို ယဉ်ကျေးသိမ်မွေ့အောင် ပြုပြင်ပါ၊ မေတ္တာကို များများပို့ပါ၊ ဗုဒ္ဓါနုဿတိကို များများထုံပေးပါ၊ ဒါဟာ ဗုဒ္ဓယဉ်ကျေးမှုတွေပဲ ၊ ဟို လာမယ့်နေ့ကျတော့လဲ ဒီအတိုင်းပဲ ကျင့်သုံးကြပါ။

ဤသို့ စသည်ဖြင့် တပည့်တို့အား အကြောင်းအားလျော်စွာ ဩဝါဒပေးတော်မူထားသည်၊ အသင့်ပြင်ဆင်နိုင်အောင် ကြိုကြိုတင်တင် သတိပေးထားခြင်း ဖြစ်၏။

## တမလွန်ဘဝနှင့်ဝန်ကြီးသံသယ

ချိန်းထားသည့်ရက်သို့ ရောက်သောအခါ သီဟိုဠ်ယဉ်ကျေးမှုဆိုင်ရာ သုတေသနဝန်ကြီး မဟာမင်းကြီး ရောက်လာပါတော့၏၊ မြန်မာနိုင်ငံယဉ်ကျေးမှုဌာနမှ ပုဂ္ဂိုလ်များလည်း ပါလာကြ၏၊ ထိုအထဲတွင် ရှေးဟောင်းသုတေသန ညွှန်ကြားရေးဝန် ဦးအောင်သော်, ကမ္ဘာ့ဗုဒ္ဓတက္ကသိုလ်ပြတိုက်မှူး ဦးစပ်ထွန်း မှတ်ဝင်း(ရန်ကုန်), မန္တလေး ရှေးဟောင်းသုတေသနဌာနမှူး ဦးမြင့်အောင်, မန္တလေး ရှေးဟောင်းပစ္စည်းပြတိုက်မှူး ဒေါ်တင်လှ, စာရေးဆရာမာယ, အယ်ဒီတာ ဦးခင်စိုး စသောပုဂ္ဂိုလ်များ လိုက်ပါလာကြသည်၊ ဦးစွာပထမ ဆရာတော်နှင့် တွေ့ဆုံကြ၏၊ အာလာပ သလ္လာပ ပြောဆိုနှုတ်ဆက်ကြသည်၊ ပြတိုက်မှူး ဒေါ်တင်လှက စကားပြန်ပြုလုပ်ပေး၏၊ သီဟိုဠ်သုတေသနယဉ်ကျေးမှုဆိုင်ရာမင်းကြီးသည် ယခုမှတွေ့ရသော ဆရာတော် အရှင်ဇနကာဘိဝံသကို ရှေးက ရင်းနှီးပြီးသား ဆရာတော်တစ်ပါးလို ထင်စားနေမိဟန်ရှိ၏၊ ဆရာတော်ကလည်း မေတ္တာကို အရင်းပြုပြီး ဗုဒ္ဓယဉ်ကျေးမှုနှင့် ညှော်ခံနေပါလိမ့်မည်၊ တစ်ဦးနှင့်တစ်ဦး ကြည်နူးမြတ်နိုးစွာ နားလည်နေကြသည်။

ဤသို့လျှင် ရင်းရင်းနှီးနှီး အကြောင်းအရာများစွာတို့ကို ပြောဆိုကြပြီးနောက် သူသိချင်သော အချက်တစ်ခုကို ဆရာတော်အား သီဟိုဠ်ယဉ်ကျေးမှုမင်းကြီးက လျှောက်ထား၏။

"တပည့်တော် ညီတစ်ယောက် သီဟိုဠ်မှာ သေဆုံးသွားခဲ့ပါတယ်၊ အဲဒီနောက် ၁၀ နှစ်လောက်ကြာတဲ့အခါ တပည့်တော်နှင့် ဇနီးတို့ အင်္ဂလန်မှာနေထိုင်ခိုက် တပည့်တော်ညီဟာ တပည့်တော်ဇနီးဝမ်းမှာ ဝင်စားပြီး မွေးဖွားလာပါတယ်၊ စကားပြောတတ်လာတဲ့အခါ ရှေးဘဝက အကြောင်းအရာတွေကို အကုန်လောက်နီးနီး ပြန်ပြောနိုင်နေပါတယ်၊ တပည့်တော်ကိုလည်း "အစ်ကို"လို့ပဲ ခေါ်နေပါတယ်။

ဒါ ဒီလောက် ကြာမှ ဒီလောက်ဝေးတဲ့နိုင်ငံမှာ ဘယ်လိုလုပ် လာဖြစ်တာလဲလို့ တွေးမရအောင် ဖြစ်နေပါတယ်ဘုရား"ဟု လျှောက်တော့သည်။

## ဝန်ကြီးနှင့်နီးကပ်သော ဥပမာပြ၍

ထိုအခါ ဆရာတော်က "ဒါဟာ ဖြစ်နိုင်တာပေါ့၊ ဒီလောက်ကြာတဲ့ ကြားကာလ ၁၀ နှစ်လောက်မှာ ဘာမှ မဖြစ်ဘဲ နေတာတော့ မဟုတ်ဘူး၊ ဘဝတစ်ခုခုမှာ ဖြစ်နေတာပါပဲ၊ အနီးအဝေးနှင့် ပတ်သက်လို့လဲ ဘုန်းကြီးတို့ ဗုဒ္ဓတရားတော်အရတော့ ရှင်းနေတာပါပဲ၊ ဘယ်လောက်ပဲ ဝေးဝေး, အာရုံတန်းမှု စွဲလမ်းမှုသာ ပဓာနပါ၊ ဖြစ်နိုင်တာပဲ။

ဥပမာ-အိန္ဒိယက သီရိဓမ္မာသောကမင်းကြီး, နိဂြောဓသာမဏေလေးတို့နှင့်သီဟိုဠ်(သီရိလင်္ကာ)က ဒေဝါနံပိယတိဿမင်းကြီးတို့ဟာ ရှေးဘဝတစ်ခုတုန်းက ပျားရည်ကုန်သည်ညီနောင်သုံးဦး ဖြစ်ခဲ့ဖူးတယ်ဆိုတာ ကျမ်းစာတို့၌ အခိုင်အလုံ ဆိုထားပါတယ်၊ ညီအစ်ကို သုံးယောက်တွင် တစ်ယောက်က သူ့အကြောင်း, သူ့ကံအရ ရွေ့ပြောင်းမြေခြား အဝေးကြီးမှာရှိတဲ့ သီဟိုဠ်(သီရိလင်္ကာ)သို့ သွားပြီးဖြစ်တယ်၊ ပြီးတော့ သူတို့သုံးဦးဟာ နောက်ပိုင်းမှာ အလွန်ကြည်နူးစွာ ရင်းနှီးချစ်ခင်ခဲ့ကြတယ်၊ ဒါဟာ သွေးက စကားပြောတယ် ဆိုရမှာပေါ့၊ ရှေး ရေစက်လို့လဲ ဆိုကြတယ်"ဟူ၍ ဝန်ကြီးတို့ ဒေသ အနီးကပ်ဆုံး ဥပမာကို ပြ၍ ဖြေကြားသဖြင့် ကျေနပ်မှုရသွားဟန်ရှိပေသည်။

ထို့ပြင်လည်း ဆရာတော်က သာဓကတစ်ခု ထုတ်ပြ၍ မိန့်ဟပြန်သေး၏။

* "ရောဟိတနတ်သား" ဆိုတာ ဘုရားထံသို့ လာလျှောက်ဖူးတယ်၊ သူဟာ ရှေးတုန်းက သိပ်လျင်မြန်စွာသွားနိုင်တဲ့ အစွမ်းရှိတဲ့ ရှာန်အဘိညာဉ်ရ

* အံ, စတုက္က – ၃၅၇။

ရသေ့တစ်ဦး ဖြစ်ခဲ့ဖူးသတဲ့၊ ဘယ်လောက်များ မြန်သလဲဆိုရင် ထန်းပင်ကိုယ်လုံးအရိပ်ကို မြားဖြတ်သွားတဲ့ နှုန်းလောက်နဲ့ အရှေ့သမုဒ္ဒရာနှင့်အနောက်သမုဒ္ဒရာကို ဖြတ်သန်းသွားနိုင်သတဲ့။

အဲဒီနှုန်းနှင့် "စကြဝဠာတွေ ဘယ်လောက်များသလဲ"လို့ သိချင်တာနှင့် ပြေးလွှားသွားလာပြီး ကြည့်လိုက်တာ အများကြီးပဲ၊ မရေမတွက်နိုင်အောင်တွေ့ရသတဲ့။

ဒါနှင့် စားချိန်သောက်ချိန် ကျင်ကြီး ကျင်ငယ်စွန့်ချိန်နှင့် အနည်းငယ် အိပ်ချိန်ကလေးမှတစ်ပါး ကျန်တဲ့ အချိန်များမှာ ဆက်လက်ပြီး အမြဲတမ်းပြေးလွှား၍ ဘယ်လောက်များသလဲ ကြည့်လာခဲ့တာကုန်ဆုံးတယ်လို့ကို မရှိဘူး၊ ရှေ့မှာ စကြဝဠာတွေ ရှိသေးတာပဲ။

အဲလိုနှင့် ပြေးရင်းလွှားရင်း တဖြည်းဖြည်းအိုမင်းရင့်ရော်လာပြီး သေသာသေခဲ့တယ်၊ စကြဝဠာတွေက မကုန်သေးဘူးတဲ့၊ အဲဒီနောက် စကြဝဠာ ဒီကမ္ဘာကို စွဲလမ်းမှုနှင့် ဒီမှာပဲ ပြန်လာဖြစ်တယ်"လို့ ဟှောက်တယ်၊ အဲဒီဝတ္ထုကြောင်းမှာလည်း ဘယ်လောက်ပဲဝေးဝေး အာရုံတန်းမှု စွဲလန်းမှုကြောင့် လာဖြစ်တာပဲဟု ထပ်ဆင့်ဖြေကြားသဖြင့် များစွာအားရ ကျေနပ်မှု ရသွားလေသည်။

## ငြိမ်းအေးချမ်းမြေ့တဲ့အရသာ

ထို့နောက်တစ်ဖွဲ့လုံး ကျောင်းတိုက်ကြီးအတွင်း လှည့်လည် ကြည့်ရှုကြသည်၊ ကျောင်းဝင်းကြီးသည် ကျယ်ဝန်းလှ၏၊ စိမ်းစို၍ အရိပ်ကောင်းသော သစ်ပင်ကြီး သစ်ပင်ငယ်တို့ဖြင့် ဖုံးအုပ်မိုးကာထားသည်ကို ရှုမြင်ကြရသည်၊ အဝေးမှနေကြည့်လျှင် တောအုပ်ကြီးပင် ထင်ရသည်၊ အတွင်းသို့ ဝင်ကြည့်လျှင်ကား အောက်ခြေမြေပြင်တွင် သဲသောင်ပြင်တလင်းကဲ့သို့ သန့်ရှင်းနေပေသည်၊ မည်သူတွေလာ၍ ရှင်းသနည်း?၊ သံဃာတွေ များစွာရှိသည်ဆိုသော်လည်း အရိပ်အရောင် သိပ်ပြီးမတွေ့ရ၊ တိတ်ဆိတ်လှ၏၊ မြို့ရွာနှင့် လှမ်းသဖြင့် ချမ်းမြေ့ငြိမ်သက်နေသည်၊ တောကြီးမြိုင်လယ်တွင် ရောက်ရဘိသို့ ထင်ရ၏၊ တောသဘာဝ ကျေးငှက်ကလေးတို့၏ တိတီတာတာ အသံစာစာကိုသာ ကြားကြရသည်၊ ရောက်ဖူးတဲ့သူတိုင်းက ငြိမ်းအေးချမ်းမြေ့သော အရသာကို ခံစားရသည်ဟု ပြောပြောသွားကြ၏၊ ယခု ဤသီဟိုဠ်ယဉ်ကျေးမှုဝန်ကြီးတို့၏ အဖွဲ့သည်လည်း ဤအတိုင်းပင် ဖြစ်ပါလိမ့်မည်။

"သီဟိုဠ်နိုင်ငံဆိုတာ ထေရဝါဒဗုဒ္ဓဘာသာနိုင်ငံတစ်နိုင်ငံပဲ၊ ဒီတော့ ဒီကျောင်းတိုက်သံဃာတွေကိုလည်း မြင်သွားရအောင်" ဆိုပြီး ဆရာတော်က ဆွမ်းစားကျောင်းကြီး အပေါ်ထပ်မှာ သံဃာတော်အားလုံးကို စုရုံးစေပါသည်၊ သံဃာတော်များ စုဝေးပြီးချိန်လောက်တွင် ကျောင်းတိုက်ကို လှည့်ပတ်ကြည့်ရှုပြီး ပြန်လာကြသော ထိုအဖွဲ့ကို ထိုကျောင်းကြီးပေါ်သို့ ခေါ်လာသောအခါ သီဟိုဠ်မင်းကြီးမှာ တအံ့တသြ ဖြစ်သွားရဟန် ရှိပြန်ပါသည်။

## ဆင်းတုလေးတွေ တယ်များပါလား

အဘယ်ကြောင့်ဆိုသော် ငြိမ်သက်နေသော သံဃာတော်များကို ဖူးတွေ့လိုက်ရသောကြောင့် ဖြစ်ပါ၏၊ ဟုတ်ပါသည်၊ သံဃာတော်များ နေထိုင်သီတင်းသုံးကြပုံကလည်း ထူးခြားလွန်းလှပါသည်၊ (စတုရန်းပုံကျကျ အကွက်ချ၍ စနစ်တကျ စိုက်ပျိုးထားသော အရွယ်တူပန်းပင်များပမာ) အရှေ့ဘက်က ကြည့်ကြည့်၊ အနောက်ဘက်က ကြည့်ကြည့်၊ တောင်ဘက် မြောက်ဘက်က ကြည့်ကြည့်၊ ထောင့်တန်းဘဲ ကြည့်ကြည့်၊ တည့်တည့်ညီညီ တစ်ဖြောင့်တည်း တည်နေကြပုံ၊ ငြိမ်သက်စွာ စက္ကူချွေချ၍ ထိုင်နေကြပုံမှာ အသက်ရှိပုဂ္ဂိုလ်များနှင့်မတူဘဲ သက်မဲ့များနှင့်သာတူနေပါတော့သည်၊ လေငြိမ်ရာ၌ ထွန်းထားသော မီးတောက်များကဲ့သို့ တည်ငြိမ်လွန်းလှသည်၊ ထို့ကြောင့်ပင် အပြင်ရောက်သောအခါ သီဟိုဠ်မင်းကြီးက ပြောပါသတဲ့၊ "ကျောင်းကြီးပေါ်တက်ပြီး အခန်းကြီးထဲ ဝင်လိုက်တော့ ဒီမှာ ...

123

ဆင်းတုတော်လေးတွေ တယ်များပါလားလို့ ပထမတော့ ထင်လိုက်မိတယ်၊ နောက်တော့မှ သြော်-အသက်ရှိတဲ့ ဆင်းတုတော်လေးတွေပဲကိုး”လို့ သိလာရပြန်သတဲ့။

ထိုတစ်ဖွဲ့လုံး သံဃာတော်များကို အလွန်ရှိသေစွာ ရှိခိုးကြ၏၊ လေးလေးနက်နက် ကြည်ညိုကြ၏၊ ပျပ်ပျပ်ဝပ်ဝပ် ဖူးမြော်ကြသည်၊ စည်းကမ်းရှိ၍ ငြိမ်သက်သောပရိသတ်ကို ရှေးတုန်း က မတွေ့ရဖူးဘဲ ယခုမှသာ တွေ့ရသလို တအံ့တသြ ဖြစ်နေကြ၏၊ ကြည်ကြည်နူးနူး ဦးတိုက်၍ နေကြသည်။

ထိုမျှမက “ကိုယ်စိတ်ကိုယ်င ရင်ထဲ၌ တလှပ်လှပ် လှိုင်းထအောင် ဘောင်ဘင်ခတ်၍ ခံစားနေကြရပါသည်” ဟုလည်း သူတို့ မျက်နှာများက ပြောပြ၍ နေကြပါသည်။



“ဒီမှာ ဆင်းတုတော်လေးတွေ တယ်များပါလား”

## ဗုဒ္ဓယဉ်ကျေးမှုမြင့်မားပုံ

ဆရာတော် အရှင်ဇနကာဘိဝံသကား ပိဋကတ်တော်ထဲမှ ဗုဒ္ဓယဉ်ကျေးမှုတွေကို လေ့လာပြီးသောအခါ စာထဲမှာသာ မထားဘဲ မိမိကိုယ်ပေါ်ရောက်အောင်ယူ၍ လက်တွေ့ကျင့်သုံးသည်၊ ထို့အတူပင် တပည့်သံဃာများကိုလည်း လက်တွေ့ကျင့်သုံးဖြစ်အောင် ဆုံးမ၍ လက်တွေ့ ကျင့်သုံးပြစေသည်၊ ယခုလို လက်တွေ့ကျင့်သုံးပြလိုက်သောအခါ ဗုဒ္ဓယဉ်ကျေးမှု၏ မြင့်မားပုံကို ပို၍ သိလာရ၏၊ မည်သူမျှ ဦးမချဘဲ မနေနိုင်အောင် ဖြစ်သွားရသည်။

တစ်ခါက မဟာဂန္ဓာရုံ သံဃာတော်များကို ရုပ်ရှင် ရိုက်ယူသွားသော အနောက်နိုင်ငံသား တစ်ယောက်သည် ... ရောက်လေရာ မဟာယာနဗုဒ္ဓဘာသာနိုင်ငံများတွင် ပြသောအခါ အံ့သြစွာ တွေ့ရပါသတဲ့၊ ပိတ်ကားပေါ်မှ သံဃာတော်များကိုလည်း မြင်လိုက်ရော မတ်မတ်ရပ်လျက်ကြည့်နေသော ပရိသတ်များသည် ထိုင်၍ထိုင်၍ ရှိခိုးကုန်ကြပါသတဲ့၊ ဤမျှပင် ဗုဒ္ဓ၏ အဆုံးအမများက မြင်ရသူ နှလုံးသားကို ထိထိခိုက်ခိုက် ဖြစ်သွားစေနိုင်ပါသည်၊ ဗုဒ္ဓယဉ်ကျေးမှု၏ မြင့်မားပုံသာဓကတစ်ရပ်ပေတကား။

အထက်ပါ ယဉ်ကျေးမှုဝန်ကြီးအဖွဲ့လာစဉ်က ပါဝင်ခဲ့ရသော ရန်ကုန်မြို့ ကမ္ဘာ့ဗုဒ္ဓတက္ကသိုလ် ပြတိုက်မှူး ဦးစပ်ထွန်းမှတ်ဝင်း ကလည်း ထိုအကြောင်းကို ပြန်ပြောင်း၍ ချီးကျူးပြောဆိုဖူးသည်။

## ဆန့်ထားတဲ့လက်နှစ်ခု အလိုလိုရုသွားမိ

ဦးစပ်ထွန်းမှတ်ဝင်းသည် ပိဋကတ်ကို အဝါးဝစွာ လေ့လာသင်ယူပြီးမှ တက္ကသိုလ်များက ဘီအေ၊ အမ်အေ ဘွဲ့ထူးများကို ရယူခဲ့သူဖြစ်သည်၊ ထို့မျှမက အမေရိကန် စသော နိုင်ငံတို့မှ အထက်တန်းဘွဲ့ထူးများကိုလည်း ရယူလိုက်သေး၏၊ အထူးအားဖြင့် “ဟိန္ဒူဘာသာ၊ ဗုဒ္ဓဘာသာ၊ ခရစ်ယာန်ဘာသာ၊ အစ္စလာမ်ဘာသာ”ဟူသော ပင်မဘာသာကြီးလေးရပ်ကို ပတ်ပတ်နပ်နပ် ထိုးဖောက်လေ့လာပြီးနောက် အစွယ်အပွားဘာသာကလေးများဖြစ်သော ဂျူး၊ ဂျိန်း (ဇင်းဗုဒ္ဓဇင်)၊ ကွန်ဖူးရှပ်၊ တာအို၊

ဆစ်ခ်, ရှင်တို, ဖာရစီဟူသော ဘာသာကလေးများပါ အားလုံး ၁၁ မျိုးကို လေ့လာခဲ့သူ ဖြစ်သည်။

ထို့ကြောင့်လည်း "သူသည် အူလည်လည်ကြီး ဖြစ်သွားကာ ဘယ်ဟာကိုမှ လေးလေးပင်ပင် မရှိသလို ဖြစ်သွားခဲ့ရ၏၊ ပြီးမှ ယုတ္တိကျ၍ သဘာဝပိုင်ပြီး အခိုင်ခံ့ဆုံးဖြစ်သော မိမိတို့၏ ဗုဒ္ဓဘာသာကိုပင် ပြန်လည်၍ ဖက်တွယ်မိတော့သည်"ဟု သူကိုယ်တိုင် ပြောပြဖူးသည်။

ဤအကြောင်းများကြောင့် သူသည် တော်ရုံတန်ရုံကို လေးစားနိုင်သူမဟုတ်တော့၊ နေရာတိုင်းကို မရိုသေနိုင်, နေရာတိုင်းကို ဦးမညွှတ်နိုင်သူ ဖြစ်သွားတော့သည်၊ ထိုပုဂ္ဂိုလ်သည် တစ်ခါတုန်းက ရန်ကုန် သံဃာ့တက္ကသိုလ် ဟောပြောခန်းမတွင် သာသနာပြုသင်တန်းသားသံဃာတော်များအား ဤသို့ လျှောက်ထားဖူးပါသည်၊ "အရှင်ဘုရားတို့... အမရပူရက ဆရာတော် အရှင်ဇနကာဘိဝံသလို ကျင့်သုံးကြစမ်းပါ၊ ထိုဆရာတော်ရဲ့ အတွင်းသား သီလ သမာဓိများကို မသိရသေးခင် အပြင်ပုံပန်းကို မြင်လိုက်ရရုံနှင့် (ချပ်ချပ်ရပ်ရပ် သပ်သပ်ပါယ်ပါယ် ဝတ်ရုံထားမှုကြောင့်) နေရာတိုင်းမှာ ဦးမညွှတ်နိုင်, ရှိမခိုးနိုင်တဲ့ တပည့်တော်ရဲ့ ဟောဒီ လက်တွေဟာ ဘယ်လို ဘယ်လို ဖြစ်သွားမှန်း မသိဘူး၊ ဆန့်တန်းထားရာက အလိုလို စု၍ လက်နှစ်ဖက်ပူးပြီး နဖူးပေါ် တင်မိရက်သား ဖြစ်သွားပါတယ်ဘုရား"ဟူ၍ လျှောက်ထားဖူးပါသတတ်။

## ခရစ်ယာန်သာသနာပိုင်ကြီးကျေနပ်

### ဘာသာ လူမျိုး မရွေး, အအေးဓာတ် ပေးမြဲ

၁၉၆၉ ခုနှစ်လောက်က ဖြစ်၏၊ မဟာဂန္ဓာရုံကျောင်းတိုက်သို့ အဝတ်အစားတစ်မျိုးနှင့် ထူးထူးခြားခြား ဝတ်ရုံထားသော ပုဂ္ဂိုလ်ကြီးတစ်ဦး ရောက်လာသည်၊ ဆရာတော်၏ ကျောင်းကလေးပေါ်သို့ တက်လာကြ၏၊ အခြွေအရံအဖြစ် ရိုးရိုး အဝတ်အစား ဝတ်သူများလည်း ပါလာကြသည်၊ ကြိုတင်အကြောင်းကြားထားခြင်း မရှိ၍ ဘယ်မြို့ဘယ်ရွာက ဘယ်သူဟူ၍ပင် မသိရပေ၊ ထို့ကြောင့် ဆရာတော်က အေးဆေးသိမ်မွေ့စွာပင် "ဘယ်ကပါလဲ"ဟု ခေါ်လာသော ပုဂ္ဂိုလ်များကို မေးမြန်းရာ "ခရစ်ယာန်သာသနာပိုင်ကြီးပါဘုရား"ဟု လျှောက်ထားကြ၏၊ ထိုအခါ ဆရာတော်က "အား-ဒီလိုဆိုရင် ဟိုနားမှာ ကုလားထိုင်ရှိပါတယ်၊ ဒီနားကို ယူလာခင်းပေးလိုက်ကြပါ" ဟု လက်ညှိုး ညွှန်ပြသဖြင့် နောက်ပါ ပုဂ္ဂိုလ်တို့လည်း ညွှန်ပြသည့်အတိုင်း ဆောင်ရွက်ကြပါသည်။

ခရစ်ယာန်သာသနာပိုင်ကြီးသည် အားတုံ့အားနာဖြင့် ဆရာတော်ရှေ့ ခင်းပေးသော ကုလားထိုင်တွင် ဝင်ထိုင်၍ ဆရာတော်လည်း ကုလားထိုင်ဖြင့် မျက်နှာချင်းဆိုင် ထိုင်ကြပါသည်၊ ပုဂ္ဂိုလ်ကြီးနှစ်ဦးတို့၏ မျက်နှာတို့သည် အေးဆေးငြိမ်းချမ်းသော အသွင်များ ကိုယ်စီဖြင့် တစ်ဦးနှင့်တစ်ဦး ကြည်နူးစွာ နှုတ်ဆက်ကြ၏၊ ထိုပုဂ္ဂိုလ်ကြီးနှင့် ပါလာကြသော မြန်မာဒကာများကား လေးစားစွာ မတ်တတ်ရပ်လျက်နေကြသည်၊ ရပ်နေကြသော ပုဂ္ဂိုလ်တို့သည်လည်း "ခရစ်ယာန် ဂိုဏ်းအုပ် ဂိုဏ်းထောက်များ"ဟု နောက်မှ ပြောပြ၍ သိကြရပါ၏။

ဆရာတော်က ခရစ်ယာန် သာသနာပိုင်ကြီးကို လေးလေးစားစား ဆက်ဆံ၍ ရင်းရင်းနှီးနှီး တရားဆွေးနွေးနေသည်ကို ခရစ်ယာန် ဂိုဏ်းအုပ် ဂိုဏ်းထောက်များက ကြည့်၍ အလွန် ပီတိဖြစ်ကာ ကျေနပ်နေကြသည် ဆို၏၊ ဆရာတော်က မေတ္တာကို အရင်းခံထား၍ ဆွေးနွေးသဖြင့် မေတ္တာ ရောင်ပြန်ဟပ်ကြခြင်း ဖြစ်ပါလိမ့်မည်။

မေတ္တာဟူသည် ဘာသာ လူမျိုး မရွေး အအေးဓာတ် ပေးမြဲတည်း။

## အထင်မသေး၍ ဆွေးနွေးနိုင်

ဆရာတော် အရှင်ဇနကာဘိဝံသသည်... ဘာသာရေးခေါင်းဆောင် ဆရာတော်တစ်ပါးဖြစ်သည့်အားလျော်စွာ မိမိတို့၏ ဘာသာရေး၌ စနစ်တကျ စည်းကမ်းရှိရှိ ဖြစ်စေချင်၏၊ ယင်းကိစ္စနှင့်စပ်၍ တစ်ပါးသောဘာသာရေးတို့၏ စည်းကမ်းစနစ်ရှိပုံကိုလည်း အထိုက်အလျောက် တီးမိခေါက်မိရှိအောင် လေ့လာထားပြီး ဖြစ်သည်။

ဎင်းတို့နှင့် ဆိုင်ရာ စာအုပ်စာတမ်းများကို ဆွေးနွေးမေးမြန်းထားခြင်းဖြင့် အတော်အတန် သိထားပြီးဖြစ်သည်၊ ခရစ်တော်သည် မေတ္တာ ကရုဏာသစ္စာ ခန္တီတရားတို့ကို အရင်းခံထား ဟောကြားခြင်း၊ ကိုယ်တိုင်ကျင့်သုံးခြင်း၊ သာဝကတို့အား လိုက်နာစေခြင်းဖြင့် တိုက်တွန်းသည်ကိုလည်း သိထား၏၊ ထို့ကြောင့် ထိုဘာသာဝင်များအပေါ် ဆရာတော်က အထင်မသေးပါ၊ ထို့ကြောင့်လည်း ဆွေးနွေး နှီးနှောနိုင်ခြင်း ဖြစ်ပါသည်။

## စည်းကမ်းစနစ်အရေးပါပုံ

ခရစ်တော်၏ အယူဝါဒကို လိုက်နာကြသော ဘာသာဝင်တို့သည် များသောအားဖြင့် အရာရာ၌ စည်းကမ်းရှိကြ၏၊ အိမ်တွင်းနေထိုင်ပုံ၊ မိမိတို့အချင်းချင်း ပေါင်းသင်းဆက်ဆံပုံ၊ သွားလာဝတ်စားပုံ၊ ဘုရားကျောင်း၌ ဝတ်ပြုပုံ၊ ဆိုင်ရာတာဝန်ကို ထမ်းဆောင်ကြပုံ (ရှေးခေတ်က) တပည့်တို့အား ပညာသင်ကြားပေးပုံ၊ ကိစ္စအားလျော်စွာ စည်းဝေးကြပုံ၊ နောက်ဆုံး၌ အသုဘ ပို့ဆောင်ပုံတိုင်အောင် ငွေကုန်မများစေဘဲ၊ ကုန်ရပြန်လျှင်လည်း အရာထင်အောင် စည်းကမ်းသေဝပ်ကြပုံကိုပါ ဆရာတော်က လေ့လာ၍ သိထားနှင့်၏၊ ထိုသို့ အရာရာ၌ စည်းကမ်းသေဝပ်ကြသောကြောင့်ပင် ဗုဒ္ဓဘာသာဝင် မိဘတို့၏ သားသမီး တချို့သည် ခရစ်တော်၏ သာဝကအဖြစ်သို့ ကူးပြောင်းသွားကြလေသည်၊ စည်းကမ်းစနစ်သည် မည်မျှ အရေးကြီး၍ မည်မျှ သွေးဆောင်ဖြားယောင်းကြောင်းကို သိနိုင်လေတော့၏။

ထို့ကြောင့်ပင် ဆရာတော်က မဟာဂန္ဓာရုံတိုက်၌ စည်းကမ်းစနစ်ကို သေသေဝပ်ဝပ် ချမှတ်၍ အကောင်အထည်ပေါ်အောင် အစွမ်းကုန်ဖော်နေခြင်း ဖြစ်သည်၊ အခြား ဗုဒ္ဓဘာသာခေါင်းဆောင် ဆရာတော်များလည်း ဤအတိုင်း တက်တက်ကြွကြွ ဖြစ်စေချင်၏၊ ဤအတိုင်း ဖြစ်မလာကြ၍ အားမရအောင် ဖြစ်နေရခြင်း ရှိပေသည်။

## မေတ္တာက အနိုင်ရလေပြီလော

ခရစ်ယာန် သာသနာပိုင်ကြီးနှင့် ဆရာတော် အရှင်ဇနကာဘိဝံသတို့သည် အားရပါးရ ကျေကျေနပ်နပ်ကြီး ပြောဆိုဆွေးနွေးကြသည်၊ အတော်ကြာအောင် ဆွေးနွေးပြီးမှ ပြန်ခါနီးသောအခါ ဤသို့ ပြောပြပါ၏။

"ရန်ကုန်မှ ဆရာကြီး ဦးဖေမောင်တင်က ပြောပြပါတယ်၊ မြန်မာဘုန်းတော်ကြီးများနှင့်ရင်းနှီးချင်ရင် အမရပူရက ဆရာတော်အရှင်ဇနကာဘိဝံသနှင့် သွားတွေ့ပါ၊ တွေ့သင့်ပါတယ်၊ အကျိုးမယုတ်ပါဘူး၊ သူ့သဘော ကိုယ့်သဘော နားလည်ပါတယ်တဲ့၊ အဲလို ပြောကတည်းက တွေ့ချင်နေတာ၊ အာသာဆန္ဒရှိနေတာ၊ ဒါကြောင့်လဲ အခုလို တကူးတက လာခဲ့ရတာပဲ"

ဤသို့ ခရစ်ယာန်သာသနာပိုင်ကြီးက ပြောပြလေသည်၊ ဟုတ်ပါသည်၊ လွန်ခဲ့သော နှစ်တွေတုန်းက ခရစ်ယာန်ဘာသာဝင် ရန်ကုန်တက္ကသိုလ် ကျောင်းအုပ်ကြီးဟောင်း ဆရာကြီး ဦးဖေမောင်တင်သည် အမရပူရသို့ နှစ်ကြိမ်တိုင်လာ၍ ဆရာတော်နှင့် အနတ္တအကြောင်းကို ကျေနပ်သည် အထိလျှောက်ထားမေးမြန်း ဆွေးနွေးသွားဖူးပါ၏။

ထိုသို့ ရောက်လာခြင်းရ၏ အကြောင်းအဆက်အစပ်ကို ပြောလိုက်ကာမှ ပို၍ပင် ရင်းနှီးဖို့ရာ၊

ပို၍ပင် သံယောဇဉ်တွယ်ဖို့ရာ ဖြစ်လာပြန်ပါသည်၊ "ဘယ်လို ဖြစ်ကြတာလဲ? ခရစ်ယာန်များကပင် ဆရာတော်ကို တွေ့ချင်နေကြသည်တဲ့၊ ခရစ်ယာန်များကလဲ သဘောထား ကြီးပါပေစွ၊ အများအားဖြင့် ဘာသာချင်း မတူလျှင် ငြူစူတတ်၏၊ ဣဿာဖြစ်သည်၊ ကိုယ့်ဘာသာမှ သူ့ဘာသာသို့ ပါသွားမည်ကို ရန်လိုတတ်၏၊ မစ္ဆရိယဖြစ်သည်။

ဤနေရာတွင်ကား ဆရာတော်၏ အေးမြစေသော မေတ္တာက ဣဿာနှင့် မစ္ဆရိယတို့ကို အနိုင်ရလိုက်ခြင်းပေလော။

## သူတော်ချင်းတွေ့ စိတ်ချမ်းမြေ့

ဆရာတော် အရှင်ဇနကာဘိဝံသနှင့်ခရစ်ယာန်သာသနာပိုင်ကြီးတို့သည် ပို၍ပင် ရင်းနှီးသွားသလိုဖြစ်ကာ ရုတ်တရက် မခွာသေးဘဲ စကားတွေ ပြောမကုန်အောင် ရှိနေပြန်တော့သည်၊ ပြန်ဖို့ရန် နေရာမှ ထတော့မည် လုပ်ပြီးခါမှ မကုန်သေးသောစကားတို့ကို အားရပါးရ ကုန်အောင် ဆက်လက်ပြောနေကြပြန်သည်၊ တစ်ဦးနှင့်တစ်ဦး မခွာကြသေးဘဲ ကြည်နူးစွာ ပြောဆိုနေကြပြန်၏။

စင်စစ်ကား ဗုဒ္ဓတရားတော်အရ ရှေးဘဝါဘဝတို့ကလည်း ဤပုဂ္ဂိုလ်ကြီးနှစ်ဦးတို့သည် တွေ့ဆုံရင်းနှီးဖူးခဲ့ကြပါလိမ့်မည်၊ ထို့ကြောင့်သာ ယခုအခါတွင်လည်း ကွဲကွာနေသော မိတ်ဆွေကြီး နှစ်ဦးက ပြန်လည်ဆုံတွေ့ကြသလို အားမရနိုင်အောင် ရှိနေကြခြင်း ဖြစ်ပါလိမ့်မည်၊ ဤသို့လျှင် ရွှင်ရွှင်ပြုံးပြုံး ရင်းရင်းနှီးနှီး ခွဲခွာခါနီး နှုတ်ဆက်ကြပြီးနောက် ကျောင်း တိုက် ဥယျာဉ်ကြီးအတွင်း ဖြည်းညင်းစွာ အေး အေးဆေးဆေး လှည့်ပတ်ကြည့်ရှုသွားကြလေ သည်၊ "ဩော်-ဒါ့ကြောင့် ချီးမွမ်းစကား ဆိုကြပေ တာကိုး၊ ကျောင်းတိုက်ဝင်းကြီးကလဲ ကျယ်ဝန်းပြီး သန့်ရှင်းလှပါဘိ စိမ်းစိုတဲ့ သစ်ပင်ပန်းမန်တွေနှင့် ဆိုတော့နွမ်းနေတဲ့စိတ်တွေလန်းအောင် အေးချမ်းလှပါဘိ၊ ဆရာတော်ကြီးကလဲ သီလ သမာဓိ နှလုံးသား အပြည့်နှင့် ရင်းနှီးစွာ အလိုက်တသိ ရှိလှပါဘိ"ဟု မှတ်ချက်ချ၍ သွားကြပါသတဲ့။

## အနောက်ဂျာမနီသူ မဥမ္မာ
## သီလရှိသူ၏ဆန္ဒ ပြည့်ဝစမြဲ

အသက် ၁၇ နှစ်ရှိ အနောက်ဂျာမနီသူ မဥမ္မာသည် ၁၉၅၉ ခုနှစ်က အမိအဖများနှင့်အတူ မြန်မာနိုင်ငံသို့ ရောက်လာခဲ့၏၊ ဥမ္မာ၏ဖခင် မစ္စတာကော်နပ်သည် မြန်မာနိုင်ငံ၌ လက်နက်တပ်ဆင်ရေးဌာနတွင် အထူး အကြံပေးအရာရှိတစ်ဦး ဖြစ်၏၊ ဥမ္မာ၏မိခင် ဖစ်ကားဒေါ်တင်မိုဆယ်ကား ဆရာဝန်တစ်ဦး ဖြစ်လေသည်၊ မစ္စတာကော်နပ်နှင့်မစ္စက်ဖစ်ကားဒေါ်တင်မိုဆယ်တို့သည် တရားဘက်လိုက်စားသူများ ဖြစ်ကြ၏၊ "ဝါသနာတူ ဆန္ဒတူ ပေါင်းမိကြခြင်းပေလော"ဟု ပြောစရာပင် ဖြစ်တော့သည်။

ရန်ကုန်မြို့ ဆရာကြီး ဦးဘခင်၏ ကမ္မဋ္ဌာန်းရိပ်သာတွင် တရားဝင်နေကြ၏၊ သို့ဖြစ်၍ ပြဟ္မစိုရ်အအေးဓာတ် ဆက်စပ်ကာ သူတို့ သမီးကြီး ဥမ္မာသည်လည်း ... တရားရိပ်သာသို့ မကြာ မကြာ ကျောင်းသူဘဝကပင် ခိုဝင်ကပ်ရောက်တတ်သူ ဖြစ်နေခဲ့တော့သည်။

ဥမ္မာသည် ၁၉၆၃ ခုနှစ်တွင် ရန်ကုန်ဝိဇ္ဇာသိပ္ပံ တက္ကသိုလ်သို့ ရောက်၍ ၁၉၆၆ ခုနှစ်တွင် မန္တလေး တက္ကသိုလ်မှ ဘီအေဘွဲ့ကို ပါဠိဂုဏ်ထူးဖြင့် အောင်မြင်ရယူခဲ့လေသည်။

မန္တလေး တက္ကသိုလ်မှ ဘွဲ့ယူပြီးနောက် ကျောက်ဆည်သို့ သွား၍ ဝေဘူ ဆရာတော်ဘုရားကြီး၏ အထံတွင် တရားအားထုတ်နေခဲ့လေသည်၊ ထိုအခိုက်တွင် ယောဂီဒေါ်စုစုနှင့် ရင်းနှီးခဲ့ရ၏။

တစ်နေ့တွင် စပ်မိစပ်ရာ ပြောရာမှ အမ်အေ (မဟာဝိဇ္ဇာဘွဲ့)ကို ပါဠိဘာသာဖြင့် ဆက်လက်ယူဖို့ အစီအစဉ်ရှိကြောင်း, ပါဠိဘာသာသင်ပေးမည့်ဌာန လိုအပ်နေကြောင်း ဥမ္မာက ပြောမိရာ ယောဂီ ဒေါ်စုစုက အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်ကို ညွှန်လိုက်လေ၏၊ ဤနည်းအားဖြင့် ဂျာမနီသူ ဥမ္မာ တစ်ယောက် မဟာဂန္ဓာရုံသို့ရောက်လာခဲ့လေသည်။

စင်စစ်ကား ဥမ္မာသည် မန္တလေးတက္ကသိုလ်မှာ ခံနေစဉ်ကပင် မိတ်ဆွေသူငယ်ချင်းများနှင့်အတူ ဤ မဟာဂန္ဓာရုံကျောင်းတိုက်ကြီးသို့ အလည်အပတ် ရောက်ဖူး၏၊ ထိုစဉ်ကပင် မိမိစိတ်တွင် ဘယ်လို ဖြစ်လာသည် မသိ, ငြိမ်းချမ်းသာယာသော ဤ ကျောင်းတိုက်ကြီးမှာ နေလိုသောဆန္ဒ ပြင်းပြခဲ့ဖူး၏၊ ယခု ထိုဆန္ဒ ပြည့်ဝနေပြီဟု နောက်မှ ပြောပြ၍ သိရပါသည်။

ဥမ္မာသည် မဟာဂန္ဓရုံ၏ ဇရပ်ဝင်း (လူပုဂ္ဂိုလ်များချည်း သီးသန့်နေရသောဝင်း)၌ နေထိုင်ခွင့်ရပြီးနောက် ပိဋကတ် စာပေများကို ဆက်လက် လေ့လာနေသည်၊ နေ့စဉ် ဆရာတော်ဘုရားကြီး ပို့ချသော ပါဠိတော်စာဝါများနှင့် မဟာဂန္ဓာရုံ စာချ ဘုန်းကြီးများ ပို့ချသော စာဝါအချို့ကို ပရိသတ် အစွန် နောက်နားမှ သူ အမြဲလိုက်သည်။

## အဋ္ဌကထာအခြေပြုဖြစ်ပေါ်လာ

မဟာဂန္ဓာရုံကျောင်းတိုက်၌နေစဉ် အဘိဓမ္မာ များကို အထူးလေ့လာ၏၊ သူသိပြီးသော အဘိဓမ္မာ များကို စမ်းသပ်သောအနေဖြင့် အစိုးရက ကျင်းပ ပေးသော ဝိသုဒ္ဓိမဂ်မြန်မာပြန်စာမေးပွဲနှင့်အဘိဓမ္မာ စာမေးပွဲများကို ဝင်ရောက်ဖြေဆိုကြည့်သည်၊ ပထမ ဆင့်, ဒုတိယဆင့်, တတိယဆင့်အထိ အောင်မြင် လေသည်၊ ထို့ကြောင့် အားတက်လာပြီးလျှင်... အစိုးရ၏ ပါဠိပထမပြန် (ငယ်-လတ်-ကြီး)တန်းများ ကိုပါ ဖြေဆိုဖို့ ကြိုးစားချင်ကြောင်း ဆရာတော်အား လျှောက်ထားသောအခါ ခွင့်မပြုပါသဖြင့် မျှသိပ် ထားခဲ့ရလေ၏၊ အဘိဓမ္မာနှင့် ပတ်သက်၍ကား အခြေခံအဘိဓမ္မာများ ပြီးစီးသောအခါ ယမိုက်နှင့် ပဋ္ဌာန်းတို့ကိုပါ ဆုံးခန်းတိုင်ရောက် ပေါက်မြောက် အောင် လေ့လာသွားလေသည်။

အဘိဓမ္မာများ ပြီးစီးသောအခါ သုတ္တန်ဘက် ဆိုင်ရာသို့ လှည့်လာ၏၊ "သုတ္တန်ဆိုင်ရာ ပါဠိတော် ကြီးများကို လေ့လာလိုပါသည်"ဟု လျှောက်လာ၏၊ အထူးအားဖြင့် ဓမ္မပဒကို ကျကျနန သိပါရစေ"ဟု ဆိုသဖြင့် ဆရာတော်ကိုယ်တိုင် ကြောင့်ကြစိုက် တော်မူ၏၊ ဓမ္မပဒကို သင်ရာ၌ ပါဠိတော်ချည်း သက်သက် သင်ယူသည်ထက် ပစ္စုပ္ပန်ဝတ္ထု အတိတ် ဝတ္ထုတို့ဖြင့် မြိုင်မြိုင်ဆိုင်ဆိုင် တန်ဆာဆင်ထား သော "ဓမ္မပဒအဋ္ဌကထာ"ကို သင်ယူခြင်းက ပိုမို၍ ပြည့်စုံသည်။

ထို့ကြောင့် ဆရာတော်က ဓမ္မပဒအဋ္ဌကထာကို သံဃာတော်များအား ချပို့ပေး၏၊ မဥမ္မာက သံဃာ တော်များ၏ အစွန်အဖျား နောက်နားက လိုက်ရ သည်၊ ချပို့ရာ၌ အဓိပ္ပာယ်အပြင် အဋ္ဌကထာစာသွား ကိုပါ နည်းစနစ်ဖြင့် ပြောသွားသဖြင့် အဋ္ဌကထာ သွားနည်းကိုလည်း သင်ပေးသလို ဖြစ်တော့၏၊ စာဆိုသောပုဂ္ဂိုလ်တို့က ထုံးစံအတိုင်း လိုက်၍ ရေးခဲ့ ရ၏၊ ဤကျမ်းစာ ပို့ချပြီးသောအခါ **အဋ္ဌကထာ အခြေပြု**ဟူသော ကျမ်းစာအုပ်ကြီးတစ်အုပ် ဖြစ်ပေါ် လာသည်ဟုပင် ဆိုရပေတော့မည်။

## အောင်မြင်မှု အထွတ်အထိပ်

မဥမ္မာသည် စာပေကျမ်းဂန်လေ့လာရာ၌ ဇဲသန် လှသူ ဖြစ်၏၊ သုတ္တန်ကျမ်းအချို့ကို လေ့လာပြီးသော အခါ ဝိနည်းဘက်ဆိုင်ရာကို လေ့လာနေပြန်သည်၊ ဤမဟာဂန္ဓာရုံကျောင်းတိုက်ကြီး၌ လေ့လာစရာတွေ ပေါလှ၏၊ သိချင်စရာတွေလည်း များလှ၏၊ အရှေ့ တိုင်းဆိုင်ရာ ဗုဒ္ဓယဉ်ကျေးမှုတွေ အပြည့်အစုံရှိသည့် တက္ကသိုလ်ကြီးသဖွယ် ဖြစ်တော့၏၊ မိမိက လေ့လာ သင်ယူနိုင်ဖို့သာ လိုသည်။

ဤကျောင်းတိုက်ကြီး၌ ဝိနည်း သုတ္တန်တို့သာမက အပြင်လောကမှာ ဖီလိုဆိုဖီဟု ခေါ်နေကြသည့် အမြင့်ဆုံး အဘိဓမ္မာ သဘောများကိုပင် အပြည့်အဝ လေ့လာလိုက လေ့လာနိုင်၏၊ ကျိုးကြောင်းသဘာဝ ယုတ္တိကျလှသည့် ဗုဒ္ဓအဆုံးအမတော်များ သင်ကြားရသော ပညာရပ်များတွင် ဥာသ်ကောက်ခြင်း, နေတ္တိထုတ်ခြင်း ပညာရပ်များကမူ ယခုခေတ် လောဂျစ်ပညာရပ်များထက်ပင် အဆင့်မြင့်လှပါသေးသည်။

ဆရာတော်ကြီးက တပည့်များအပေါ် ရှင်တော်ဗုဒ္ဓနည်းအရ ဆုံးမကွပ်ကဲရာ၌လည်း "ဆိုက်ကို" ပညာရပ်များ အလိုလိုပါပြီး ဖြစ်နေသည်ကို လေ့လာတွေ့ရှိရပါ၏၊ ဤသို့လျှင် ဥမ္မာအတွက် လေ့လာစရာတွေ မကုန်နိုင်အောင် ဖြစ်နေတော့သည်။

ထူးခြားသည်ကား အပြင်လောက တက္ကသိုလ်ကြီးများ၌ ဤကဲ့သို့ ပညာရပ်များကို လေ့လာလျှင် ပိုက်ဆံကြေးငွေ များစွာကုန်၏၊ ဤဗုဒ္ဓတက္ကသိုလ်ကြီး၌ကား ဗုဒ္ဓသားတော် ဗုဒ္ဓသမီးတော်များ ဖြစ်သောကြောင့် ပညာကို အလကား ရသည်၊ အခမဲ့ သင်ကြားဖြန့်ဝေပေးသည်၊ မိမိ တစ်ဦးတည်းသာ မဟုတ်သေး၊ ဗုဒ္ဓသားတော်အားလုံး ထုံးစံအတိုင်း ပညာကို အခမဲ့ရကြသည်၊ ကုန်ကျစရိတ်အားလုံးကို တိုင်းပြည်က စေတနာ အပြည့်ဖြင့် လှူကြသည်။

မဥမ္မာသည် အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်၌ နေထိုင်စဉ် စာပေများကို လေ့လာရင်း အခြားတစ်ဖက်မှလည်း အမ်အေ (မဟာဝိဇ္ဇာ)ဘွဲ့ကို ယူရန်အတွက် စာတမ်းပြုစုနေခဲ့သည်၊ စိတ်ဓာတ်ခိုင်မာ၍ ဖွဲကောင်းသူသည် ဖွဲဆုကို ရမြဲဖြစ်ရာ ဥမ္မာသည် ၁၉၇၀ ပြည့်နှစ်တွင် အမ်အေ (မဟာဝိဇ္ဇာဘွဲ့)ကို ပါဠိဘာသာဂုဏ်ထူးဖြင့် ထူးထူးခြားခြား ဆွတ်ခူးကာ အောင်ပန်းကို ပန်ဆင်နိုင်ခဲ့ပါလေသည်။

## ဗုဒ္ဓအလိုတော်ကျ မိဘကို ပြုစု

ဂျာမနီသို့ မပြန်မီ ဥမ္မာသည် ဂန္ဓာရုံသို့ သံဃာကုန် ဆွမ်းကပ်သွားသေး၏၊ နံနက် ယာဂု, နေ့အုန်းဆွမ်း, အားလုံး သက်သတ်လွတ်ချည်း၊ စည်းကမ်းရှိ၍ ငြိမ်သက်စွာ ဘုဉ်ပေးနေကြသော သံဃာတော်များကို သူ့မိခင်ကြီးနှင့်အတူ လှည့်လည်ဖူးမြော်ကြည်ညိုကြ၏၊ သူ့မိခင်ကြီးသည် ဗုဒ္ဓဘာသာတရားရိပ်သာများသို့ ဝင်ခဲ့သော်လည်း ခရစ်ယာန်ဘာသာဝင်တစ်ဦးပင် ဖြစ်၏။

သို့ဖြစ်လင့်ကစား ချစ်လှစွာသော သမီးကြီး ဥမ္မာ၏ ဘာသာရေးခံယူချက်၌ သူ စွက်ဖက်ဝင်ရောက်ခြင်း မရှိပေ၊ သဘောထားကြီးစွာဖြင့် ခွင့်ပြုလျက်ပင် နေသည်။

ထိုဆွမ်းကျွေးပွဲအတွက် အနုမောဒနာတရား ဟောကြားရာတွင် ဆရာတော်က "မာတာပိတုဥပဋ္ဌာန်-အမိ အဖတို့အား ပြုစုယုယလုပ်ကျွေးခြင်း" မင်္ဂလာတရားအကြောင်းကို အကျယ်တဝင့် ဟောပြတော်မူသည်။

ထို့ပြင် အမိ အဖတို့ဆိုတာ (ပြဟ္မာတိ မာတာပိတရော) အပူဇော်ခံ ပြဟ္မာကြီးများနှင့်လည်း တူကြောင်း ထပ်ဝှလောင်း ဖြည့်စွက်တော်မူ၏၊ ထိုမှတစ်ပါး မိခင် ဖခင်အိုတို့ကို ပြုစုလုပ်ကျွေးသော ဘုရားလောင်း "မာတုပေါသကဆင်မင်း"ဝတ္ထုနှင့် နာမည်ကျော် သုဝဏ္ဏသာမဇာတ်တော်ကိုလည်း အကျဉ်းချုပ်၍ ဟောပြတော်မူလေသည်။

ဥမ္မာတို့ သားအမိသည် တရားတော်ကို နာယူ၍ ကြည်နူးမှု အပြည့် ရရှိကြ၏၊ မိဘတို့၏ တန်ဖိုးကိုလည်း ဥမ္မာတစ်ယောက် ကောင်းကောင်းကြီး သဘောပေါက်ကာ "ဗုဒ္ဓသမီးတော်အစစ် ဗုဒ္ဓအလိုတော်ကျ မိဘကို သက်ဆုံးတိုင် ပြုစုမည်"ဟု ဆိုတော့သည်။

## ဟိမဝန္တာယောဂီကြီးရောက်လာခြင်း
## မှာကြားသလိုလို ကတိထားသလိုလို



**ဟိမဝန္တာမှ ယောဂီကြီးဆွာမိ**

၁၉၇၂ ခု ဇန်နဝါရီလထဲက ဖြစ်၏၊ ဟိမဝန္တာတွင် ၃၅ နှစ်ကြာမျှ တစ်ဆက်တည်းနေပြီး တရားအားထုတ်ခဲ့ဖူးသော ဟိန္ဒူယောဂီကြီးတစ်ဦး အမရပူရ မဟာဂန္ဓာရုံသို့ ရောက်လာခဲ့၏၊ အမည်မှာ "ဆွာမိယောဂီရှရာနန္ဒ"ဟု ခေါ်၏၊ ယောဂီကြီးမှာ အသက် ၈၄ နှစ်ရှိပြီ၊ သို့သော် ပုံပန်းမှာမူ ၆၀ အရွယ်လောက်ဟု ထင်ရ၏၊ သွက်လက်ဖျတ်လတ်မှုကား ငယ်ရွယ်သူပမာ, အရပ်အမောင်းမှာ ခပ်ပြတ်ပြတ်, အသားက မဖြူမညို, မြေနီရောင်ဆိုးထားသော လုံကွင်းနှင့် မြေနီရောင်အင်္ကျီကို ဝတ်ထား၏၊ ဦးခေါင်းတွင်လည်း မြေနီအရောင် အဝတ်ကို ချုပ်ထားသည့် ဦးထုပ်အပျော့ကို ဟိန္ဒူဦးထုပ်စနစ်အရ ချပ်ချပ်ရပ်ရပ် ဆောင်းထားသည်။

ဤယောဂီကြီးသည် ယောဂီကျင့်စဉ်အလုပ်ကို အဆင့်မြင့်မြင့် ကြိုးစား အားထုတ် ပေါက်မြောက်လာသူဟု မြင်ရရုံနှင့် ခန့်မှန်းနိုင်သည်၊ ဟိမဝန္တာတွင် တကယ် တောမှီသည့် ယောဂီအလုပ်ဖြင့် နေခဲ့၏၊ သူ့ ဆရာကြီးမှာ အသက် ၁၅၀ ရှိ၍ တိဗက်ယောဂီကြီး ဖြစ်သတတ်။

ဤ ယောဂီကြီး ရှရာနန္ဒ၏ စွမ်းအားကို သိ၍ အိန္ဒိယအစိုးရအရာရှိများနှင့် အိန္ဒိယအမျိုးသားတို့က အလွန်လေးစား ကြည်ညိုကြသည်ဟု သိရ၏။

ယောဂီကြီးသည် ဆရာတော်နှင့် တွေ့လျှင်တွေ့ချင်း တရင်းတနှီးဖြစ်၏၊ ရှင်အားတက်ကြွ နှုတ်ဆက်ကြ၏၊ ထိုမှနောက်၌ တရားဓမ္မ ဆွေးနွေးကြသည်၊ ရှင်ပျကြည်နူး တစ်ဦးကိုတစ်ဦး လေးစားကြ၏၊ စကားပြောကြသည်မှာ မဝနိုင်သလို ဖြစ်ကြရသည်၊ ကြာမြင့်စွာ ကွဲကွာနေခဲ့ရာမှ ပြန်လည်ဆုံတွေ့ရသော မိတ်ဆွေကြီးများပမာ ဖြစ်တော့၏၊ တရားဆွေးနွေးပြီး၍ ပြန်ခါနီးတွင် ယောဂီကြီးက ဆရာတော် အရှင်ဇနကာဘိဝံသကို နှုတ်ဆက်၏၊ တစ်စုံတစ်ခု မှာကြားသလို, တစ်မျိုးတစ်မည် ကတိထားသလိုလည်း လေးစားသောအမူအရာဖြင့် ပြုလုပ်နေသည်ကို တွေ့ရ၏၊ ထိုအခါ ဆရာတော်က ခပ်ရွှန်းရွှန်း ပြော၍ မမောနိုင်သောစကားကို ဖြတ်ကာ လူချင်းခွဲကြလေတော့သည်။



ဆရာတော် အရှင်ဇနကာဘိဝံသ

## အနောက်က အရှေ့ကို မျက်နှာမူလာပြီ ချမ်းမြေ့မှုပညာပေးနိုင်တာ အရှေ့တိုင်းတစ်ခုတည်း

ရန်ကုန်ပြန်ရောက်၍ စာရေးဆရာ, သတင်းစာဆရာတို့က ယောဂီကြီးအား သွားရောက်တွေ့ဆုံမေးမြန်းကြသည်၊ ယောဂီကြီးက ပြောပြသည်မှာ "ယခု ကမ္ဘာ့နိုင်ငံ အများအပြား၌ ယောဂအကြောင်းကို စိတ်ဝင်စားနေကြတယ်၊ ဘာလို့လဲဆိုတော့ စိတ်ရဲ့ ငြိမ်းချမ်းမှုကို ရချင်နေကြလို့ပါပဲ၊ သိပ္ပံတွေ ထွန်းကားလို့ ရုပ်ချမ်းသာပေမယ့် စိတ်မချမ်းသာကြလို့ဘဲ။

ဒီတော့ ဒုတိယကမ္ဘာစစ်ကြီးပြီးကတည်းက ဒီစိတ်ရဲ့ငြိမ်းချမ်းမှုကို စူးစမ်းရှာဖွေကြရာမှ ဒီယောဂအလုပ်ကို စိတ်ဝင်စားလာကြတာပဲ၊ ဒီစိတ်ဓာတ်ငြိမ်းချမ်းမှု အတတ်ပညာကို ပေးနိုင်တာကလဲ အရှေ့တိုင်းက ပုဂ္ဂိုလ်တွေပဲဖြစ်တယ်၊ ဒါ့ကြောင့် အနောက်တိုင်းက ပုဂ္ဂိုလ်တွေက အရှေ့ဘက်ကို မျက်နှာမူလာကြတာပဲ၊ အခု မျက်နှာမူနေကြပြီ။

ကျုပ်ကိုယ်တိုင် အိန္ဒိယမှာ ယောဂဌာနသုံးခု ဖွင့်ထားတယ်၊ အနောက်နိုင်ငံက လူတွေလာပြီး ယောဂအလုပ် အားထုတ်ကြတယ်၊ ပြီးလို့ သူတို့နိုင်ငံပြန်သွားတော့ အဲဒီမှာ ယောဂဌာနတွေ ထပ်ဖွင့်ကြပြန်တယ်၊ အခု အဲဒီဌာနတွေက ကျုပ်ကို ဖိတ်လို့ ခရီးထွက်လာခဲ့တာ။

မနှစ်က ဧပြီလကစပြီး အိန္ဒိယကထွက်, အီရန်, ဂရိ, ဆွစ်ဇာလန်, ပြင်သစ်, အင်္ဂလန်, ဂျာမနီ, အမေရိကန်, ဂျပန်, ဟောင်ကောင်, စင်ကာပူနှင့် ထိုင်းလင်း ရောက်ခဲ့တယ်။

အဲဒီကနေပြီး အခု ဒီမြန်မာပြည်ကို ရောက်လာခဲ့တာပဲ၊ မြန်မာပြည်ကို လာတာက မြန်မာပြည်က ယောဂီကြီးတွေနှင့် တွေ့ဆုံချင်တဲ့အကြောင်းကြောင့်ပါပဲ။

ဒီမရောက်ခင် ထိုင်းလင်းရောက်တော့ ဘာသာရေးဘက်ဆိုင်ရာပုဂ္ဂိုလ်ကြီးများက ပြောကြတယ်၊ "ဆွာမိကြီး...မြန်မာပြည်ကို ရောက်ရင် အမရပူရမြို့က မဟာဂန္ဓာရုံကျောင်းတိုက်ကို သွားဖြစ်အောင်သွားပါ, အရှင်ဇနကာဘိဝံသဆရာတော်နှင့် တွေ့ဖြစ်အောင်တွေ့ပါ"လို့ မှာလိုက်ကြတယ်၊ ဒါ့ကြောင့် သွားခဲ့ပါတယ်၊ ရောက်ခဲ့ပါပြီ"ဟု ပြောကြား၏။

## မြန်မာပြည်က ယောဂီကြီးတွေနှင့်တွေ့ချင်လို့ တရားတွေ့ရင် မမေ့ပါနှင့်တဲ့

ထိုအခါ စာရေးဆရာနှင့်သတင်းစာဆရာတို့က "ယောဂီကြီး...ယောဂီကြီးပြောတဲ့အထဲမှာ မြန်မာပြည်ကို လာရခြင်းဟာ မြန်မာပြည်က ယောဂီကြီးတွေနှင့်တွေ့ချင်လို့ဆိုတာ ပါတယ်၊ အခု အဲဒီပုဂ္ဂိုလ်ကြီးတွေနှင့်တွေ့ရတာ ဘယ်လိုသဘောရပါသလဲ" ဟု မေးကြ၏၊ "တစ်နေ့တုန်းက မဟာစည်ဆရာတော်နှင့် သွားတွေ့တယ်၊ တွေ့ရတာ ကောင်းပါတယ်၊ အထက်မြန်မာပြည်ကို သွားရတာကတော့ ဝေဘူဆရာတော်နှင့်အရှင်ဇနကာဘိဝံသဆရာတော်ကို တွေ့ဖို့ပါပဲ၊ ဝေဘူဆရာတော်ကို ခရီးထွက်နေလို့ မတွေ့ခဲ့ရပါဘူး၊ ဆရာတော် အရှင်ဇနကာဘိဝံသနှင့်တော့ တွေ့ခဲ့ရပါတယ်။

ဆရာတော်အရှင်ဇနကာဘိဝံသကို တွေ့ခဲ့ရတဲ့အတွက် ကျုပ်မြန်မာပြည်ကို လာရကျိုး နပ်တယ်၊ ဆရာတော်နှင့် စကားပြောရ ဆွေးနွေးရတာ သိပ်အဆင်ပြေတယ်၊ တဦးနှင့်တစ်ဦး နားလည်ကြတယ်။

ကျုပ်သူ့ကို တွေ့ရတာ ဘယ်လိုလဲ မသိဘူး, တစ်ထိုင်တည်းနှင့် အနှစ်နှစ် အလလက မိတ်ဆွေရင်းလို ရင်းနှီးသွားတယ်၊ ဆရာတော်ဟာ သိပ်ကို ပညာရှိတယ်၊ နောက်ဆုံး ခွဲခွာခါနီးမှာ ကျုပ်က သူ့ကို "တကယ်လို့ အရှင်ဘုရားက တရားထူးကို

အရင်တွေ့ရင် ကျုပ်ကို မမေ့ပါနှင့်"လို့ မှာခဲ့တယ်။ သူကလဲ ပြန်ပြောတယ် "ယောဂီကြီးက အလျင်တွေ့ရင်လဲ ကျုပ်ကို လက်တို့ပါဦး"တဲ့။

**အမှာ။** ။၁၃၃၃ ခု တပေါင်းလဆုတ် ၂ ရက် (၁-၃-၇၂)နေ့ထုတ် အိုးဝေဂျာနယ်, စာမျက်နှာ ၁၃, စာရေးဆရာ ပါရဂူ၏ ဆောင်းပါးမှ အချို့ကို ယူ၍ ရေးပါသည်။

## ဒူးပြဲကြီးနှင့်အဘွားကြီး
## ကြက်သီးဖျန်းဖျန်းထကြရ

၁၃၁၄ ခု တန်ဆောင်မုန်းလ(၁၉၅၁ ခု နိုဝင်ဘာလ)ထဲကဖြစ်သည်၊ အသက် ၇၀ ကျော် ဂျာမနီက အဘွားကြီး တစ်ဦးသည် အဖော် သုံးလေးဦးနှင့် ဂန္ဓာရုံသို့ ရောက်လာကြ၏၊ သူတို့ ရောက်လာချိန်တွင် ကျောင်းတိုက်၌ သီးခြားဆွမ်းကပ်ပွဲရှိ၍ သံဃာတော် ၅၀၀ ကျော်တို့ စီတန်းပြီး ဆွမ်းခံနေချိန်နှင့် ကြုံကြိုက် ဆုံစည်းနေလေသည်၊ သံဃာတော်တို့သည် ထုံးစံအတိုင်း အညိုရောင်သင်္ကန်းဝတ်စုံတူ, ပုံစံတူ, အသွေးတူဖြင့် ဆွမ်းစားကျောင်းကြီး၏အနီး ညီညာသော လမ်းမကြီးပေါ်မှာ တမျှော်တခေါ်ကြီး ဣန္ဒြေရရ စီတန်းနေကြသည်၊ တရွေ့ရွေ့နှင့်ကြွ၍ ကိုယ့်အလှည့်ကျသောအခါမှသာ သပိတ်ဖွင့်ပြီး ခံယူကြသည်၊ ဖူးမြင်ရသည်မှာ ကြက်သီးဖျန်းဖျန်းထလောက်အောင် မျက်စိပသာဒ ရှိလှပါဘိခြင်း။

အဘွားကြီးသည် ဝမ်းသာအားရ ကားပေါ်မှ ခုန်ချဆင်းပြီး သူ့မှာပါလာသော ကင်မရာဖြင့် သံဃာတန်းကြီးကို အငန်းမရ ဓာတ်ပုံရိုက်တော့သည်၊ ဟိုဘက်က လှည့်ရိုက်, ဒီဘက်က လှည့်ရိုက် ရှုထောင့်မျိုးစုံ ရိုက်ကူးယူနေ၏၊ ဆွမ်းလှူနေသူ ဒါယကာ ဒါယိကာမများကိုလည်း အလွတ်မပေး ရိုက်ကူးလိုက်သေး၏။

သံဃာများဆွမ်းခံပြီး၍ ဆွမ်းစားကျောင်းကြီးထဲမှာ စားပွဲတစ်ခုလျှင် လေးပါး လေးပါး စနစ်တကျ ဆွမ်းဘုဉ်းပေးနေကြသည်မှာလည်း ထူးခြားသော မြင်ကွင်းပင် ဖြစ်၏၊ မမောနိုင် မပန်းနိုင် ရိုက်ကူးယူသည်၊ သူမသိသော အရာတို့ကိုလည်း စကားပြန်မှတစ်ဆင့် ခပ်တွင်တွင်သာ မေးနေတော့၏၊ သူ့ပုံပန်းမှာ အသက်ကြီးသည်ကို မေ့ထား၍ လူငယ်များပမာ ပေါ့ပါးဖျတ်လတ်စွာဖြင့် ကြည်ကြည်နူးနူး မြူးနေသည်။

## ကြည်ကြည်နူးနူး ဖူးခွင့်ကြုံရ

သံဃာတော် ၅၀၀ ကျော်တို့ တစ်နေရာတည်း၌ တစည်းတဝေးတည်း ဆွမ်းဘုဉ်းပေးနေကြပုံ, ငွန်းသံ ပန်းကန်သံမျှ မကြားရ, စကားပြောသံမျှလည်း မပါဘဲ အေးဆေးသော မျက်နှာများဖြင့် အာဟာရ မျှတနေကြပုံတို့ကို ကြည့်၍ ပီတိဖြစ်ခြင်း, ကြည်ညိုခြင်း, အံ့ဩခြင်းတို့ကို အဘွားကြီး၏ မျက်နှာမှာ အထင်းသား တွေ့နေရသည်။

ထိုအထဲတွင် မေးစရာ တစ်ကွက်ပေါ်နေ၏၊ အဘွားကြီး၏ ဂါဝန် ဒူးဆစ်နား၌ သွေးသံများ ရွှဲရွှဲစိုလျက်ရှိနေသည်၊ ထိုဒဏ်ရာကို သူအာရုံမပြုအား, သွေးများကိုလည်း မသုတ်သင်မိ, ပတ်တီးစည်းချိန်လည်း မရ ဖြစ်နေခဲ့ရသည်၊ ထိုအခြင်းအရာကို နာယကဆရာတော်တစ်ပါးဖြစ်သူ ဦးကုဏ္ဍလာဘိဝံသက အနားရောက်လာခိုက် မေးမိလေသည်၊ ထိုအခါမှ ဇာတ်ကြောင်း ပေါ်တော့၏၊ အဘွားကြီးက စကားပြန်ဖြင့် ပြောပြသည်။

## အဘွား၏ အာသာဆန္ဒ စုမှုပြည့်

"ဒီကျောင်းတိုက်ကြီးအကြောင်း, ဒီသံဃာတော်များအကြောင်းကို ဟိုမှာတုန်းကပင် အတော်အတန်ကြားခဲ့သိခဲ့ဖူးပါတယ်၊ ရုပ်ရှင်ရိုက်ပြီး ယူလာပြလို့ သာယာလှတဲ့ ဒီကျောင်းတိုက် ဥယျာဉ်ကြီးကိုလဲ ရုပ်ရှင်ထဲမှာ မြင်ရပါတယ်၊ သံဃာများရဲ့ လှုပ်ရှားမှု တစ်စိတ်တစ်ဒေသကိုလဲ ရုပ်ရှင်ထဲမှာ တွေ့ရလို့ ဟိုတုန်းကပဲ ကြည်ညိုခဲ့ရပါတယ်"တဲ့။

အဲဒီကတည်းက ဒီကို လာချင်နေတာ,... အကြောင်းမညီညွတ်နိုင်လို့ "ငါ့မှာ အသက်ကလဲ ၇၀ ကျော်ပြီ၊ မသေခင် တစ်ခေါက်လောက်တော့ ရောက်အောင် သွားဦးမယ်"လို့ အားခဲထားတယ်၊ အခုမှ ကံကောင်းလို့ အကြောင်း ညီညွတ်ရပါတယ်တဲ့။

လေယာဉ်ပျံနှင့်လာလို့ မန္တလေး ချမ်းမြသာစည်လေဆိပ်ကို ရောက်ခါနီးတော့ ဘေး မိတ်ဆွေတွေက ပြောကြတယ်။

"ခင်ဗျား ရောက်ချင်နေတဲ့ ကျောင်းတိုက်ကြီး အခု ရောက်တော့မယ်, လေဆိပ်နဲ့ သိပ်မဝေးတော့ဘူး"လို့ ပြောကြတော့ ...အားရဝမ်းသာနှင့် လေယာဉ်ပေါ်က ဆင်းလိုက်တာ လှေကားထစ်အကုန်မနင်းမိလို့ ကျွမ်းပြန်ကျပြီး ဒူးပြဲသွားတယ်" ဟု တဟဲဟဲ ရယ်ရင်း ပြောနေပါတော့သည်။

## တရိပ်ရိပ် ဖြတ်သန်းလာခဲ့ရသော ဘဝခရီးဝယ်
### ကျန်းမာရေး နားမလည်ခဲ့၍

ဆရာတော်၏ဘဝခရီးတွင် ၁၃ နှစ်သားမှ ၂၃ နှစ်သားအရွယ်အထိ ၁၀ နှစ်တိုင်တိုင် စာသင်သားဘဝ၌ စာသင်နေရ, စာဆိုနေရသဖြင့် ကျန်းမာရေးကို ဂရုမစိုက်နိုင်ခဲ့, ဂရုစိုက်ရမှန်းလည်း မသိခဲ့၊ ထို့ကြောင့် ကျန်းမာရေး ယိုယွင်းခဲ့ရသည်၊ အထူးအားဖြင့် မျက်စိကန်းလုနီးမျှ မှုန်ဝါးသွားအောင် အားနည်းခဲ့ရ၏။

ထို့နောက် စာချဘုန်းကြီးကလေးဘဝဖြင့် နေရသောအခါ အတော်အတန် ပင်ပန်းမှုသက်သာသည်ဟု ဆိုရမည်ဖြစ်၏၊ သို့သော်လည်း ၁၀ နှစ်တိုင်တိုင် ပင်ပန်းခဲ့ရသောဒဏ်ကြောင့် အရှိန်အနည်း လျော့ရုံမျှသာဖြစ်သည်၊ ထိုအတွင်း ပထမကျော်,သက်ျသီဟ စာမေးပွဲများကို ဝင်ရောက်ဖြေဆိုလိုက်ပြန်သဖြင့် အသက် ၂၈ နှစ်ခန့်အထိ ဒဏ်တွေက ပိလျက်ပင်ဖြစ်ပြန်၏၊ ထိုဒဏ်တွေ စုပုံဖိသဖြင့် ခန္ဓာကိုယ်မချိဘဲ ယိုင်လဲလုမျှ ဖြစ်၍လာရာ အသက် ၃၀ မှာ မိမိဘဝကိုပင် မရေရာအောင် ဖြစ်၍လာတော့သည်၊ ထိုအခါ "မိမိကြံစည်ထားသော အချက်အလက်ကလေးများ လက်ရာအဖြစ် ကျန်ရစ်စေတော့"ဟု ရည်ရွယ်၍ ကျမ်းစာရေးသားခြင်း, တစ်ဖက်မှလည်း ကျန်းမာရေးဂရုစိုက်ခြင်းဖြင့် ကံအားလျော်စွာ ထူထူထောင်ထောင် ဖြစ်၍လာသည်။

ထိုအခါမှ ကျန်းမာရေးကို ပြုပြင်လျှင် ပြုပြင်သလို ရနိုင်သည်ဟု သိလာရတော့၏။

## ဥစ္စာ ကံစောင့်, အသက် ဉာဏ်စောင့်

"ဥစ္စာကို ကံစောင့်သည်, အသက်ကို ဉာဏ်စောင့်သည်"ဆိုသည်ကိုလည်း ထိုအခါမှ သတိရကာ မိမိ၏ အသက်ရှည်ရေးအတွက် ဉာဏ်နှင့် တွဲဖက်ကာ ကျန်းမာရေးကို အလွန်အမင်း ဂရုစိုက်ရပါတော့သည်၊ မိမိနှင့်သင့်လျော်သောဆေးဝါးဓာတ်စာတို့ကို စားသုံးခြင်း, အနေအထိုင်, အသွားအလာ ဣရိယာပုတ်တို့ကို ပြုပြင်ခြင်းဖြင့် မိမိလိုသလို ပြုပြင်၍ ရသည်ဟု သိလာသည်၊ ဆရာတော်မှာ အသက် ၃၀ ကျော်မှ ၆၀ အတွင်း၌ ကျန်းမာရေး အတော်ကောင်းသည်ဟု ဆိုရပါမည်၊ လွန်လွန်ကဲကဲ ထူးထူးခြားခြား အလွန်ဆိုးရွားစွာ ကျန်းမာရေး ယိုယွင်းသည်ဟု မရှိခဲ့ပါ၊ ဆရာများ ညွှန်ကြားချက်ဖြင့် ငါးကြီးဆီကို စားသုံးကြည့်သည်၊ ခန္ဓာကိုယ် အခံဓာတ်နှင့် ငါးကြီးဆီတို့ သင့်မြတ်လာခဲ့၏။

အသက် ၃၅ နှစ်လောက်မှစ၍ ခန္ဓာကိုယ်လည်း တဖြည်းဖြည်း စည်ကားလာသည်၊ ရှေးယခင်က မပိန်မဝ အနေအထားရှိခဲ့သော ခန္ဓာကိုယ်သည် တဖြည်းဖြည်း ဆူဖြိုးလာ၏။

ခန္ဓာကိုယ် ဆူဖြိုး၍ ကျန်းမာရေးကောင်း သလောက် သာသနာပြုစိတ်ဓာတ်လည်း အား ကောင်းခဲ့၏၊ သာသနာပြု လုပ်ငန်းရပ်တို့လည်း များစွာ တွင်ကျယ်ခဲ့သည်။

## ကြိုတင်ကာကွယ်သည့်အနေ

သက်တော် ၆၀ ကျော်လာသောအခါ မကြာစဖူး ဆေးရုံကို ရောက်ဖူးရတော့၏၊ ရန်ကုန်သို့ရောက်ခိုက် သမားတော်ဘွဲ့ရ ဆရာဝန်ကြီးများက ကျန်းမာရေး စစ်ဆေးပြီးလျှင် ဘာရောဂါရှိသည်ဟု မပြောဘဲ "ဆေးရုံတက်ပါ"ဆို၍ တက်ဖူးရတော့၏၊ အနည်း ငယ် ဆေးစား, ဆေးထိုးရုံဖြင့် ကုပေး၏၊ တစ်ပတ် ခန့် နေရပြီးလျှင် ပြန်ဆင်းခဲ့ရသည်။

ရောဂါ ထူးထူးထွေထွေ ရှိသည်ဟု မဆိုသာ သော်လည်း ဖြစ်လာမည့် အခြေအနေကို ကြိုတင် ကာကွယ်သည့်အနေဖြင့် ဆရာဝန်ကြီးများက ဆေးရုံ တက်စေသည် ဖြစ်ပါလိမ့်မည်၊ ကျန်းမာရေးကောင်း လျက်ပင် ဖြစ်၏၊ ကောင်းအောင်လည်း အမြဲတမ်း ဂရုစိုက်သည်၊ ထူးခြားသည်ကား ဆရာတော်၏ ဘဝတစ်သက်တာတွင် သူတစ်ပါး၏ အနင်းအနှိပ် ခံသည်ဟု ထုံးစံမရှိခဲ့ခြင်းပင်တည်း၊ ထို့ပြင်လည်း ဆရာတော်မှာ တံတွေးထွေးခြင်း, သလိပ်ဟပ်ခြင်း အလေ့မရှိသဖြင့် ဆရာတော့်အနားတွင် ထွေးခံထား ရခြင်းကိစ္စ မရှိခဲ့ပေ၊ ယင်းကိစ္စကား အိုသည့်တိုင် အောင်ပင် စာချရာအနီးတွင်လည်းကောင်း, နေထိုင် ရာ ကျောင်း၌လည်းကောင်း ထွေးခံ မထားခဲ့ရပေ။

## သေချင်မှ သေရတော့မှာ

ဆရာတော်က ညောင်းလျှင် လမ်းလျှောက်သည်၊ ခါးတောင့်လျှင် ဝရန်တာလက်ရန်းပေါ်မှာ မှီ၍ ဖြေ သည်၊ လေအောင့်လျှင် လက်ဖြင့် အသာအယာ ဖိပေး၍ ပွတ်သပ်ချသည်၊ ငုံ့ပြီး စာကြည့်ဖန်များ၍ ဇက်ညောင်းလျှင် ခေတ္တရပ်နားပြီး ဇက်ကို ဝဲယာ လှည့်ပေးသည်၊ မျက်စိညောင်းလျှင်လည်း စိမ်းစိုစို ပတ်ဝန်းကျင်ကို ကြည့်ပေးသည်၊ အစားအစာကို လည်း ဝမ်းသက်မည့်အစာ, ဝမ်းချုပ်မည့်အစာ, ဗိုက်နာမည့်အစာ စသည်ဖြင့် မတည့်ရာကို ရှောင် ရှား၍ တည့်ရာကိုသာ ရွေးစားသည်၊ မလွန်မကဲ မနည်းမများ ချင့်ချိန်၍ စားသည်၊ ဤနည်းအားဖြင့် ကိုယ့်ကျန်းမာရေး ကိုယ်ပြုပြင်နေသည်ဟု ဆရာ တော်က ပြောပြတတ်၏၊ စာချရင်း တစ်ခါတစ်ရံ မိန့်တတ်သေးသည်။

"ဘုန်းကြီးမှာ ကျန်းမာရေး သိပ်ကောင်း တယ်၊ ကောင်းအောင်လည်း ပြုပြင်နေတယ်၊ ပြုပြင်သမျှလည်း ဖြစ်နေတာပဲ၊ ဖြစ်ချင်သလို လည်းဖြစ်နေတယ်၊ ဒီတော့ဘုန်းကြီး တော် တော်နှင့် မသေနိုင်သေးဘူး၊ မသေနိုင်အောင် ပြုပြင်လို့ ရနေတယ်၊ ဒါ့ကြောင့် ဘုန်းကြီး သေ ချင်မှပဲ သေရတော့မှာနှင့်တူတယ်"ဟူ၍ပင် ခပ်ရွှန်းရွှန်း မိန့်တတ်၏။

## အိုခြင်းကို မည်သူတားနိုင်အံ့နည်း

သို့သော် အပြောသည် အပြောသာ ဖြစ်၏၊ အိုခြင်းသဘောတရား, နာခြင်းသဘောတရားတို့ကို အဘယ်သူ တား၍ ရနိုင်အံ့နည်း၊ ဂါထာမန္တရား ဆေးဝါး ဝိဇ္ဇာတို့ဖြင့် စီရင်သော်မှ ခေတ္တခဏ အခိုက် အတန့်မျှသာ ဖြစ်တန်ရာ၏၊ ဇရာဓမ္မ သဘာဝ, ဗျာဓိဓမ္မ သဘာဝတရားကိုကား မည်သူမျှ တား၍ ရရိုးထုံးစံ မရှိခဲ့ချေ။

* ဇရာဓမ္မံ မာ ဇီရီတိ၊ ဗျာဓိဓမ္မံ မာ ဗျာဓိယီတိ

---

* အင်္ဂုတ္တရပါဠိ, စတုက္က – ၁၉၁း

**နတ္ထိ လောကေ အနိန္ဒိတော** ပါဠိတော်ဒေါ်—အိုတာကို မအိုစေရပါဘူး၊ နာတာကို မနာစေရပါဘူးလို့ အာမခံဝံ့သူ လောကမှာ တစ်ဦးတစ်ယောက်မျှ မရှိချေ”ဟူ၍ပင် ရှင်တော် ဗုဒ္ဓက ဟောပြထားသည် မဟုတ်ပါလော။

သို့ဖြစ်၍ ဆရာတော်၏ ခန္ဓာကိုယ်တွင်လည်း ကြည့်နေရင်းပင် ဇရာဓမ္မ သဘာဝကို တဖြည်းဖြည်း ပြလာနိုင်သလို, ဗျာဓိဓမ္မ သဘာဝတို့လည်း မသိမသာ တွဲလျက် ပါလာမည်သာတည်း။

ဤဇရာ ဤဗျာဓိတို့ကား မြတ်စွာဘုရား၏ခန္ဓာကိုယ်တော်ကိုပင် အလွတ်မပေးခဲ့၊ နှိပ်စက်ခဲ့ဖူးကြသည် မဟုတ်တုံလော။

## အသက်ကြီးလေ အလုပ်တွေပြီးလေ

ဆရာတော်မှာ သက်တော် ၅၀ ပြည့်ပြီးနောက်ပိုင်းတွင် အလုပ်တွေက ပိုမိုတွင်ကျယ် ပြီးမြောက်လာသည်။

အသက် ၅၀ မပြည့်မီကမူ ရတနာ့ဂုဏ်ရည်မှစ၍ အနာဂတ်သာသနာရေးကျမ်းစာအထိ ကျမ်းပေါင်း ၁၀ ကျမ်းသာ ရေးသားပြီးစီးနိုင်ခဲ့၏၊ အသက် ၅၀ မှ ၆၀ အတွင်း ရုပ်ပုံရှင်ကျင့်ဝတ်မှစ၍ ဘာသာ သွေးအထိ ၁၀ အုပ်ပြီးစီးပြန်သည်။

ဆရာတော်၏ တစ်ဘဝလုံး ရေးသားခဲ့သော ကျမ်းစာအမျိုးပေါင်း ၆၃ မျိုးတွင် ဤအမျိုးပေါင်း ၂၀ မှတစ်ပါး ကျန်သောကျမ်းစာများသည် အသက် ၆၀ ကျော်မှ ပြီးမြောက်လာကြခြင်း ဖြစ်သည်၊ အံ့ဩဖွယ်ကောင်းလေစွ။

အသက်ကြီးလေ အလုပ်တွေက ပိုမိုပြီးလေ ဖြစ်၏၊ တစ်ခါတုန်းက စာရေးဆရာ သတင်းစာဆရာ ဦးသိန်းဖေမြင့်က မေးလျှောက်ဖူးသည်။

“ဆရာတော်ဘုရား ... တပည့်တော်စိတ်ထင် အရှင်ဘုရား အသက် ၆၀ မပြည့်ခင်က ပြီးတဲ့စာတွေထက် အသက် ၆၀ ပြည့်ပြီး ဒီဘက်မှာမှ ပိုများလာတယ်လို့ ထင်တယ်ဘုရား, တပည့်တော် မှန်ပါ့မလား။

“အင်း...မှန်နိုင်ပါတယ်၊ သို့ပေမယ့် သေသေချာချာ ပြန်စဉ်းစားပြီး တွက်ကြည့်ရဦးမှာပဲ”ဟု ဆရာတော်က ဖြေသည်။

## ဗာဟိရကိစ္စမများ၍

ဟုတ်ပါသည်, အသက် ၆၀ ကျော်ပြီးမှ ပြီးစီးကြသော ကျမ်းစာတို့က ပို၍များပေသည်၊ အဘယ့်ကြောင့်ဆိုသော် အသက်အရွယ်ထောက်လာသော အခါ အပြင်ထွက်ပြီး လိုက်ဟောရမည့် တရားဟောကိစ္စတို့ကို လက်မခံခြင်း, ဆွမ်းစားကွမ်းစား ပင့်လာသည်ကို ရှောင်ရှားခြင်း, ဟိုမြို့သည်ရွာ လည်ပတ်မှုကိစ္စမရှိခြင်းတို့ဖြင့် ဗာဟိရကိစ္စ မများစေဘဲ နေ့စဉ်မှန်မှန် ကျမ်းဂန်ပို့ချ ရေးသားလာခဲ့သောကြောင့် ဖြစ်ပေသည်၊ ထို့ပြင် နောက်ပိုင်းမှ ပြီးစီးကြသော ကျမ်းစာအုပ်ကြီးတို့က ပိုမို၍ပင် ထူထဲခိုင်ခံ့လှသဖြင့် သာသနာအတွက် အားရစရာ ကျေနပ်စရာ ပို၍ကောင်းလှပါတော့သည်။

## အရွယ်က စကားပြောလာ

ဆရာတော်သည် အသက် ၆၅ နှစ်ခန့်မျှ ရှိလာသောအခါ နံနက်ခင်း ပေးသော ဩဝါဒသည် အနည်းငယ် ဟန်ပြောင်းလာခဲ့၏၊ ရှေ့ပိုင်း ရှေ့ပိုင်းတွေတုန်းက ဩဝါဒပေးခဲ့သည်မှာ “လွှဲလဝိရိယရှိဖို့, ကျန်းမာရေးကောင်းဖို့, သာသနာရေးဆိုင်ရာအလုပ်တွေ ကြိုးစားဖို့, သဒ္ဓါတရားကောင်းဖို့, စိတ်ထားဖြူစင်ဖို့, သီလစင်ကြယ်ဖို့”တွေကို များစွာပြောခဲ့၏၊ များစွာ ဆုံးမခဲ့၏။

အရွယ်ထောက်၍ ၆၅ နှစ်ခန့် ရှိလာသောအခါတွင်ကား သေဖို့အရေးပါ ထပ်ဆင့်တိုး၍ သတိပေးလာသည်၊ “ဒီဘုံကြီးက သေရတဲ့ ဘုံကြီးဆိုတော့ တစ်နေ့နေ့ သေကြရမှာ ကေန်ပဲ, ဒီတော့ မသေခင်ကြိုတင်ပြင်ဆင်ထားမှ, နင်သေဖို့ပြင်ထားဆိုတာ ဒါပေါ့” ဤသို့ စသည်ဖြင့် သေဖို့အရေး, နေဖို့အရေးပါ ထည့်သွင်း ထည့်သွင်း ပြော၍လာ၏၊ အသက်အရွယ်က စကားပြောလာသည်ဟုပင် ဆိုရချေမည်။

## လူ့ဘဝသည်တန်ဖိုးကြီး

ဆရာတော်၏ အယူအဆကား လူ့ဘဝသည် တန်ဖိုးကြီးမား၏၊ ကံကောင်းထောက်မ၍ ယခုရခဲ့ကြပြီ၊ ရ၍ထားသော လူ့ဘဝကို လက်လွတ်မသွားစေသင့်၊ *"နခသိခူပမသုတ်တော်" အရဆိုလျှင် လူတွေ သေပြီးနောက် လူ့ဘဝကို ရင်းစား ပြန်ရသူက နည်းပါးလှသည်၊ ငရဲ, တိရစ္ဆာန်, ပြိတ္တာ, အသူရကာယ် အပါယ်လေးဘုံမှာ ဖြစ်ရသူတွေက များသည်၊ ကောင်းကောင်းမနေလျှင် ဖြစ်ကုန်ကြမှာပဲ၊ အပါယ်ဘုံရောက်မိရင် ခေါင်းပြန်ထောင်ဖို့ မလွယ်ဘူး၊ ဒါကြောင့် သတိရှိကြပါဟု မကြာ မကြာ သတိပေးသည်။

နံနက်ခင်းဩဝါဒ၌ အခြားအကြောင်းအရာတွေကို ပြောဆိုဆုံးမနေရသော်လည်း အပြီးသတ်တွင် ဤသတိပေးချက်များ ပါတတ်သည်၊ ပါရှိသာမက နောက်ကာလတွင် သတိရနေအောင် သံဃာတော်များ ကိုယ်တိုင် ရွတ်ဆိုဖို့ အောက်ပါအတိုင်း သင်ပေးတော့၏၊ သတိပေးဂါထာဟု ဆိုရမည်ဖြစ်သည်။

၁။ ငရဲရှိတယ်၊

၂။ တိရစ္ဆာန်ရှိတယ်၊

၃။ ပြိတ္တာရှိတယ်၊

၄။ လူနဲ့လူမွဲ လူဆင်းရဲရှိတယ်၊

၅။ သေရဦးမယ်၊

၆။ သတိထား…။

သံဃာတော်များသည် အမြဲဆိုရ၏၊ နံနက်ခင်းဩဝါဒမပေးမီ ထိုထို ဤ ဤ သံဝေဂစာများကိုသော်လည်းကောင်း,ဂုဏ်တော်များကိုသော်လည်းကောင်း, မှတ်သားဖွယ်ကောင်းသော ဂါထာများကိုသော်လည်းကောင်း ဆိုကြရပြီးလျှင် အထက်ပါ ၆ ချက် သတိပေးဂါထာတို့ကို အမြဲတမ်း ရွတ်ဆိုကြရ၏၊ သံဃာ အများစုဖြင့် ဆိုရသော အသံသည် ပွဲတင်ခတ်လျက် ဟိန်း၍ ဟိန်း၍ တက်တော့၏။

## ကိုရင်ကလေးတို့သံဝေဂ

ဆိုရသည်မှာ တစ်နေ့လည်း မဟုတ်, နှစ်နေ့လည်း မဟုတ်, တစ်ရက်လည်း မက, နှစ်ရက်လည်း မက, တစ်လလည်းမက, နှစ်လလည်းမက, လပေါင်းများစွာ, နှစ်ပေါင်းများစွာ နေ့စဉ် ဆိုကြရသည်၊ နှစ်တွေ ကြာလာသောအခါ ထိုအသံကြီးသည် နားထဲမှာ စွဲနေကြ၏။

နံနက်တိုင်းပင် ပဲပြုတ်နှင့် ချဉ်ရည် (သို့မဟုတ်) ပဲပြုတ်နှင့် ငါးပိရည် (ငံပြာရည်)တို့ဖြင့် နေ့စဉ် ဗိုင်ခံအာဟာရအဖြစ် အရှက်ဆွမ်းကို ခပ်သုတ်သုတ် စားပြီးလျှင် ဩဝါဒခံယူရာသို့ သွားရ၏၊ ပြီးလျှင် ထို သတိပေးဂါထာ ၆ ချက်ကို ဆိုကြရသည်။

ထိုအခါ သာမဏေကလေးတို့သည် မည်သည့် ခံစားချက် ရှိလာသည် မသိ၊ ထိုသတိပေးဂါထာကို ဆိုရသည့် အသံအလိုက် သူတို့ချင်း စုမိရာတွင် ဆရာတော်ကြီး မကြားအောင် အောက်ပါအတိုင်း ဆိုကြလေ၏ …တဲ့။

၁။ ပဲပြုတ်ရှိတယ်၊

၂။ ချဉ်ရည်ရှိတယ်၊

၃။ ငါးပိရည်ရှိတယ်၊

၄။ ဩဝါဒသွားရဦးမယ်၊

၅။ သုတ်သုတ်စား။

---

* သံယုတ်ပါဠိ–၃, နခသိခူပမသုတ်, နှာ– ၄၀၀၊ သံ– ၁၊ ၅၅၄။

## ခြင်္သေ့အမှတ်တံဆိပ်ကြီးနှင့် ဆရာတော်၏ခံယူချက်

"စာသင် ကြာသပတေး, စာရေး သောကြာ" ဟူ၍ ရှေးကဆိုရိုးရှိခဲ့၏၊ ဆိုလိုသည်မှာ စာဝါတစ်ဝါကို စတင်တက်ပြီ ပို့ချပြီဆိုလျှင် ကြာသပတေးနေ့မှ စတင်ရမည်၊ သို့မှသာ အပြီးအစီး အောင်မြင်၍ ဆုံးခန်းတိုင်ရောက်သည်ဟု ဆိုလို၏၊ ပေစာပုရပိုက်တို့ကို စတင်ရေးကူးသောအခါ (သို့မဟုတ်) ကျမ်းစာတစ်စောင်တစ်ဖွဲ့ စတင်ရေးသားသောအခါတို့၌ကား သောကြာနေ့တွင် စတင်ရေးရမည်၊ သို့မှသာ ချောမောစွာ ပြီးစီးအောင်မြင်သည်ဟု ဆိုလိုသည်၊ လောကီကျမ်းတို့ အဆိုအမိန့်များ ဖြစ်ကြ၏၊ ဤအဆိုအမိန့်များအတိုင်း ဆရာတော်က လိုက်နာယုံကြည်ပါသလော၊ မလိုက်နာပါပေ၊ မယုံကြည်ပါပေ။

အဆင်ပြေသောနေ့တွင် စတင်၍ ပို့ချရေးသားလိုက်သည်သာ၊ တစ်ခါတလေတွင်မူ... လက်ရှိကျမ်းစာ အပြီးသတ်နေ့တွင် စောစောစီးစီး ပြီးနေပါက (အချိန်ကလည်း ရှိနေသေးပါက) ရှေ့တွင်ဆက်လက်ပို့ချမည့် ကျမ်းစာကို စရုံပင်ဖြစ်ဖြစ် အစပျိုးလိုက်သေးသည်၊ ထို့ပြင် ဤသို့လည်း အမိန့်ရှိတတ်သေး၏၊ "တချို့က ပြောတတ်ကြသေးတယ်ကွ, ကျမ်းစာပြုစုတဲ့နေရာမှာ "သက္ကစ္စံ အဘိယာစိတော" ရှိသေစွာတောင်းပန်တဲ့သူရှိမှ အောင်မြင်တယ်တဲ့၊ တို့မှာ တောင်းပန်တဲ့သူ မရှိပါဘူး၊ မှန်မှန်ကြိုးစားတော့ ပြီးစီး အောင်မြင်တာပါပဲ"တဲ့၊ ဤသို့သော ခံယူချက်ပါပေ။

## အမှတ်တရအနေ ပြုလေ့ရှိခြင်း

သို့သော်လည်း အမှတ်တရအနေဖြင့်ကား ပြုလုပ်လေ့ရှိပါသည်၊ ဥပမာ...

(၁) ဆရာတော်၏ ကျမ်းစာရေးသားခြင်းဘဝတွင် ရတနာသုံးပါးကို ဦးထိပ်ထားရာရောက်အောင် ဟူ၍ ရည်ရွယ်ကာ "ရတနာ့ဂုဏ်ရည်ကျမ်းစာ" ကို အဦးဆုံး ထုတ်ဝေ၏။

(၂) ဆရာတော်ကိုယ်တိုင် တလေးတစား အရေးထား၍ ရေးသားအပ်သော သဂြိုဟ်ဘာသာဋီကာကျမ်းစာကြီးကို သူ၏ မွေးနေ့ဖြစ်သော တပို့တွဲလကွယ်နေ့တွင်စတင်ရေးသားပြီးနောက် အပြီးသတ်သောနေ့ကိုလည်း တပို့တွဲလကွယ်နေ့တွင်ပင် နိဂုံးအုပ်၍ အပြီးသတ်ထားသည်၊ စတင်ရေးသားသည်မှ အပြီးအစီးအထိ ၈ နှစ်ကြာသည်။

(၃) မြန်မာနိုင်ငံလွတ်လပ်ရေးရသောအခါ နိုင်ငံနှင့်သာသနာ ပြုပြင်ဖို့ရာအတွက် ရည်မှန်းပြီးရေးသားသော ..."အနာဂတ်သာသနာရေး" ကျမ်းစာကို လွတ်လပ်ရေးမရမီ တစ်ရက်ကြိုတင်၍ (လွတ်လပ်ရေးပေးမည့် ဇန်နဝါရီလ ၄ ရက်နေ့ထက် တစ်ရက်စော၍) အပြီးအစီး နိဂုံးအုပ်ထား၏။

(၄) သာသနာတော်၏ အညွန့်အညှောက်ဖြစ်သော သာမဏေငယ်များအတွက် ရေးသားသော "ရုပ်ပုံရှင်ကျင့်ဝတ်"ကျမ်းစာကို သင်္ဘောယနာကိစ္စဖြင့် မန္တလေးမှ ရန်ကုန်သို့ ခရီးသွားနေဆဲ မီးရထားကြီးပေါ်မှာ အပြီးသတ် နိဂုံးအုပ်ရေးသားခဲ့သည်။

(၅) တစ်ဘဝလုံး စာချခြင်း, စာရေးခြင်းဖြင့်နေလာခဲ့သော ဆရာတော် အရှင်ဇနကာဘိဝံသသည် တစ်ဘဝအတွက် ဇာတ်သိမ်းမည့်နေ့, ဇာတ်သိမ်းမည့်နာရီပိုင်းတိုင်အောင်ပင် စာချခြင်း, စာရေးခြင်းတို့ဖြင့် အလုပ်လုပ်ရင်း ဇီဝိန်ချုပ်စေတော်မူခဲ့၏၊ ဤသို့လျှင် စွဲစွဲထင်ထင် အမှတ်တရကလေးများ ပြုလုပ်လေ့ရှိတော်မူတတ်သည်။

## ဗေဒင်ထက် လက္ခဏာကိုယုံ

ဆရာတော်၏ လုပ်ငန်းများ အောင်မြင်သော အခါ ဟိုက ဒီက ဗေဒင်ဟောချင်သော ဆရာများ လာကြ၏၊ ဆရာတော်၏ ခုနှစ်သက္ကရာဇ်ကို မေးချင် မြန်းချင်လာကြသည်၊ သိချင်လာကြ၏။

ဆရာတော်ကမူ ဗေဒင်အဟော မခံလိုပေ၊ ဆရာတော်၏ အယူအဆမှာ ဗေဒင်ကိန်းခန်း စန်း လဂ် ဇာတာကောင်း ၍ ကြီးပွားလာသည် မဟုတ်၊ ဂြိုဟ် နက္ခတ် အဓိပတိကျ၍ အောင်မြင်ရသည် မဟုတ်၊ ဉာဏ်နှင့် လုံ့လဝီရိယတို့၏ စွမ်းအားကြောင့်သာ ကြီးပွားရသည်၊ အောင်မြင်ရသည်ဟု ယူဆတော်မူ၏။

ထို့ကြောင့် ကြီးပွား/မကြီးပွားနှင့် ပတ်သက်၍ ဂြိုဟ် နက္ခတ် စန်း ဇာတာတို့က အဓိက မဟုတ်၊ ယင်း ပုဂ္ဂိုလ်တို့၏ ဉာဏ်စွမ်းသတ္တိနှင့် ဝီရိယ ရှိ/မရှိ၊ သတိ သမာဓိနှင့် လုပ်ရည်ကိုင်ရည် ထက်/မထက်ကိုသာ အဓိကကျသည်ဟု ယူဆတော်မူသည်။

မှန်ပါသည်၊ မည်မျှပင် ဂြိုဟ် နက္ခတ် စန်းဇာတာကောင်း၍နေစေကာမူ အလုပ် မလုပ်ဘဲ နေပါက အကျိုးရမည်လော၊ ကြီးပွားလာနိုင်ပါမည်လော၊ မကြီးပွားနိုင်ပါ၊ ရှေးကံပါရမီ စန်းလဂ်ဇာတာ ဆိုသည်တို့မှာ အကူအညီမျှသာ ဖြစ်ကြ၏၊ ကြီးပွားနိုင်ဖို့ အကြောင်းမှာ ဉာဏ်စွမ်း သတ္တိ ဝီရိယလုပ်အား တို့သာ ဖြစ်ကြသည်၊ ယင်းတို့သည်သာ အမှတ်လက္ခဏာ ဖြစ်ကြ၏။

## ခြင်္သေ့မင်းကြီးအမှတ်တံဆိပ်

ထို့ပြင်လည်း ဆရာတော်က အမှတ်လက္ခဏာ တစ်ခု ယူထားသေး၏၊ ဆရာတော်သည် အင်္ဂါသား ဖြစ်သောကြောင့် သူ၏ကိုယ်ပိုင် အမှတ်အသား အဖြစ် "ခြင်္သေ့ကြီး"အမှတ်တံဆိပ်ကို ယူလိုက်လေသည်၊ ခြင်္သေ့သည် အားကောင်း၏၊ လုံ့လဝီရိယ ရှိ၏၊ တောသုံးထောင်ကို အစိုးရသော တောတွင်းဘုရင်ပင်ဖြစ်၏၊ ကြောက်ရွံ့သောစိတ်ကင်း ရဲတင်း ၏၊ ထို့အတူ ဆရာတော်ကလည်း သာသနာပြုရာတွင် မိမိကိုယ်၌ ရဲတင်းသောစိတ်များ သွင်း၍၊ မွေးမြူ၍ ခြင်္သေ့ကြီးပမာ အတုယူလိုက်သည်။

ခြင်္သေ့မင်းသည် အားအင်ပြည့်ဖြိုး၍ တောသုံးထောင်ကို မည်မျှပင် အုပ်စိုးရသော်လည်း လုံ့လဝီရိယ မရှိဘဲ တစ်နေ့လုံး အိပ်နေပါက အဘယ်မှာ စားဖွယ်ရပါအံ့နည်း၊ ထို့ကြောင့်ပင် ...

**"သီဟမည်ခေါ်, ခြင်္သေ့သော်လည်း, အိပ်ပျော်လျက်သာ, နေတုံပါမူ, ဘယ်မှာစားဖွယ်, ခံတွင်းလယ်သို့ သားငယ်သမင်, လာ၍ဝင်အံ့"**ဟူ၍ ပညာရှိ နီတိဆရာများက ဆိုကြခြင်း ဖြစ်သည်။

ထို့ပြင် ခြင်္သေ့မင်းသည် အားကောင်းသလောက် ဝီရိယများကို လျှော့ရဲရဲပြုလေ့ မရှိ၊ အစာအဖြစ် သားကောင် ဖမ်းရာတွင် သားကောင်က ငယ်သည် ဖြစ်စေ, ကြီးသည်ဖြစ်စေ သူ့ခွန်အားကို လျှော့မထားဘဲ တစ်အားကုန်ကျဲ၍ ခုန်ပြီး အုပ်ဖမ်းလေ့ ရှိ၏၊ ဘာ့ကြောင့်နည်း? အစဉ်အလာက ထားခဲ့သော လုံ့လဝီရိယများ လျှော့ပါးသွားမည်စိုးသောကြောင့် (ဝီရိယများလျှော့၍ အကျင့်ပျက်သွားမည် စိုးသောကြောင့်)ဟူ၍ ဤရည်ရွယ်ချက်ကိုလည်း ဆရာတော်က သဘောကျတော်မူ၏။

ထို့ပြင် မြားဖြင့် အပစ်ခံရရာတွင် မြားကိုလိုက်၍ မကိုက်, မြားပစ်သူ ပင်ရင်း ရန်သူကိုသာ လိုက်၍ ရှာတတ်၏၊ ဤသို့ အကြောင်းရင်းကို ရှာတတ်၍ လည်း သဘောကျ၏

## ခြင်္သေ့ကြီးမတ်ရပ်ထလာပြီ

ထို့ကြောင့် ဆရာတော်က ဤလက္ခဏာများကို ယူပြီးလျှင် သူ၏ ကျမ်းစာအုပ်များ၌ ခြင်္သေ့အမှတ်တံဆိပ်များကို တပ်ဆင်ပြီး ထားလေသည်။

သို့ရာတွင် စောစောပိုင်းကမူ ခြင်္သေ့၏ဦးခေါင်းပိုင်းပုံမျှသာ တပ်ဆင်၏၊ နောက်မှ ကိုယ်လုံးပါ ပါလာ၏။

သို့သော် မြေမှာ ပြား၍ အားလျားမှောက် ကာ အေးအေးဆေးဆေး ဝပ်၍နေပုံ ဖြစ်သည်။



"ခြင်္သေ့ကြီးထလာပြီကွ"

နောက်ပိုင်းတွင်ကား တောသုံးထောင်အနံ့ ခရီးဆန့်၍ ကျက်စားမည့်ပုံဟန် မတ်တပ်ရပ်၍ ထလာသောပုံ ထုလုပ်စေ၏၊ ထိုအခါ ဆရာတော်က... "ခြင်္သေ့ကြီး ထလာပြီကွ"ဟူ၍ပင် အားတက်သရော အမိန့် ရှိဖူး၏၊ သို့သော် ဤ အမှတ် တံဆိပ်နှင့် ပတ်သက်၍ မည်သည့်တပည့် ဒါယကာ ဒါယိကာမ အားမျှ ပြောကြားရှင်းလင်းပြခြင်း မရှိခဲ့ပေ၊ ဆရာတော်၏ အလေ့အထ ဝါသနာကလေးတို့ကား ဤသို့သာတည်း။

## ဗုဒ္ဓအဆုံးအမကြောင့် လူမျိုးမရွေးလေးစားလာကြပုံနှင့် မှီခိုသံဃာများ တဖြည်းဖြည်းများလာခြင်း

### သံဃာ့ဘုန်းကံ ဖြိုးမောက်လျှံ

၁၃၂၃ ခုနှစ် ဝါတွင်းက ရဟန်းအပါး ၅၀, သာမဏေ ၁၈၅ ပါး, ပေါင်း ၂၃၅ ပါး ရှိခဲ့၏၊ ၁၃၂၄ ခုနှစ် ဝါတွင်းသို့ ရောက်သောအခါ ရဟန်း ၅၅ ပါး, သာမဏေ ၂၀၈ ပါး, ပေါင်း ၂၆၃ ပါး ဖြစ်လာသည်၊ ၁၃၂၅ ခုနှစ်တွင်ကား ရဟန်းအပါး ၆၀, သာမဏေ ၂၂၉ ပါး, ပေါင်း ၂၈၉ ပါး၊ ဤသို့အားဖြင့် သံဃာအရေအတွက် တစ်နှစ်ထက်တစ်နှစ် မြင့်၍ တိုး၍ များ၍ လာနေတော့၏၊ ဆရာတော့်မှာကား သံဃာတွေ များလာသလောက် စားသောက်ရေးတာဝန်, နေထိုင်ရေး အဆောက်အအုံတာဝန်, ကျန်းမာရေး တာဝန်တွေ ပိုလာ၏၊ "ဖြစ်မှ ဖြစ်ပါ့မလား"ဟု စဉ်းစားရသည့်အခြေ ရောက်လာသည်၊ မေတ္တာကိုသာ များများ ပို့ရတော့၏။

သို့ရာတွင် ထင်သလောက် အခက်အခဲများ မကြုံလိုက်ရပေ၊ သံဃာ့ဘုန်းကံများသည် အံ့ဩဖွယ် ကောင်းပေစွ၊ သံဃာတွေ တိုးလာသလောက် စားသောက်ရေး, နေထိုင်ရေးတို့အတွက် ဖြည့်စွက်မည့် ဒါယကာ ဒါယိကာမများ ပေါ်လာကြသည်၊... နံနက်ခင်း အရုဏ်အတွက် ချက်ဖို့ ပြုတ်ဖို့ရာ ထောက်ပံ့မည့်သူ ရောက်လာ၏။

နေထိုင်ရေးအတွက် အဆောက်အအုံဆောက်ပေးဖို့ရာ ကျောင်းဒါယကာများ ပေါ်လာသည်၊ ဝါဆိုဦးနှင့် သီတင်းကျွတ်တို့တွင်လည်း ဝါဆိုသင်္ကန်း, ကထိန်သင်္ကန်းများ တန်းစီရုံတော့ ဖြစ်လာသည်ပင်၊ တော်ပေသေး၏၊ သံဃာများအတွက် တဒိတ်ဒိတ် ခုန်ခဲ့ရသော ရင်သည်လည်း အေးရ၏ဟု ဆိုဖွယ်ပင် ဖြစ်သည်။

ဆရာတော်ကား မျက်ဝါးထင်ထင် သံဃာများ၏ ဘုန်းကံကို မြင်ရ, သာသနာတော်၏ အရှိန်အဝါကို မြင်ရသဖြင့် ပိုမိုပြီး အားတက်လာရ၏၊ "သီလ သမာဓိ ဖြူစင်၍ သူတော်စင်အဖြစ်နှင့် မိမိတို့ဘက်က နေဖို့သာ လိုသည်၊ စိတ်ကောင်း နှလုံးကောင်းနှင့် သူတော်ကောင်းဖြစ်ဖို့သာ သံဃာတော်များဘက်က အရေးကြီးသည်၊ လိုအပ်သမျှ ပြည့်ဝစုံလင်အောင် ဖြစ်ပေါ်လာမှာပဲ"ဟု စွဲစွဲမြဲမြဲ ယုံကြည်လာတော့၏။

ယုံကြည်လာလေ ကောင်းကောင်း နေဖို့ ဆုံးမလေ, ဆုံးမပါများလေ သံဃာများဘက်က ကျစ်ကျစ်လျစ်လျစ် ဖြစ်၍ လာရလေ အခြေသို့ ဆိုက်တော့သည်။

## သီလကိုသာ ဦးစားပေး၍

ဆရာတော်က စိတ်ကူးခဲ့၏၊ မိမိ မီသမျှ ဆရာသမားကြီးတို့၏ ကျင့်သုံးနေထိုင်မှုကို ကြည့်၍လည်းကောင်း, ပိဋကတ်စာထဲ၌ တွေ့သမျှ အနေအထားတို့ကို မှတ်သားလေ့လာ၍လည်းကောင်း "သာသနာတော်၌ ရှေးအကျဆုံးဖြစ်သော ပုံပန်း"ကို စိတ်ကူးဖြင့် ဖမ်းကြည့်နေခဲ့သည်။

ရှေးက ဆရာတော်ကြီးများ သီလစင်စင်ကြယ်ကြယ်နှင့် သိက္ခာရှိရှိ သမာဓိတည်တည် နေထိုင်ကျင့်သုံးသွားပုံ, သာသနာ့ဝန်တွေ ဆောင်ရွက်သွားပုံ, ရှေးကျကျနေထိုင်ပုံတို့ကို မြင်ယောင်နေခဲ့၏၊ ကြည်ညိုအားရစရာ ကောင်းလှသည်၊ ထို့ကြောင့် "သာသနာတွင် ဤသို့သော သံဃာတော်အရှင်မြတ်များ ပျောက်ကွယ်မသွားစေသင့်ပေ၊ သာသနာ့ကျက်သရေ မျက်ခြေအပြတ် မခံသင့်ပေ"ဟူသော ရည်ရွယ်ချက်ဖြင့် မဟာဂန္ဓာရုံသို့ ရောက်လာသော သံဃာများကို ရှေးကျကျဖြစ်အောင် ပြန်လည် ပုံဖော်နေခြင်းသာ ဖြစ်၏ဟု ဆရာတော်က အမိန့်ရှိတတ်၏၊ "သာသနာတော်ကြီးကိုတော့ ပြောင်းပြန်ပြန်ပစ်မှ ဖြစ်မယ်, ပြောင်းပြန်ဆိုတာ တခြားမဟုတ်ပါဘူး, ရှေးကျကျ ပြန်နေမှ ဖြစ်မယ်လို့ ဆိုလိုတာပါ" ဟု မိန့်တတ်၏။

"ရှေးကျကျ"ဆို၍ ထူးဆန်းလှသည်ကား မဟုတ်ချေ၊ စာပေကို နောက်ထား, ဦးစားမပေးဘဲ ဖြည်းဖြည်းသင် တတ်ချင်မှတတ်, ကိုယ်ကျင့်သီလကိုကား မကျင့်ချင်၍ မရ, မလိုက်နာချင်၍ မဖြစ်၊ ကျင့်ကိုကျင့်ရမည်၊ လိုက်ကို လိုက်နာရမည်၊ မလိုက်နာလိုလျှင် ဂန္ဓာရုံကို မလာပါနှင့်"ဟူ၍ပင် ခပ်တင်းတင်း ခပ်ကြပ်ကြပ် စည်းကမ်းဘောင်ခတ်ထားသည်၊ ဘုရားဥပဒေကျင့်သုံးလိုက်နာမှုကို ငယ်ငယ်ကပင် အကျင့်ရနေအောင် ပုံသွင်းထား၏။

"သက်န်းကိုညီညီဝတ်ပါ, ဣန္ဒြေရသောအရောင်ဆိုးပါ, ချပ်ချပ်ရပ်ရပ် ရန်းပါ ရုံပါ, သိက္ခာရှိရှိ သွားပါလာပါ၊ သိမ်သိမ်မွေ့မွေ့နေပါ ထိုင်ပါ, ယဉ်ယဉ်ကျေးကျေး ပြောပါ ဆိုပါ, စိတ်ကောင်းနှလုံးကောင်း ထားပါ သိုပါ, သူ့ဘက် ကိုယ့်ဘက် မျှပါ တပါ, သူတော်ကောင်း အစစ်ဖြစ်အောင် နေပါ ထိုင်ပါ" ဟူသော သွန်သင်မှုများသာတည်း၊ ဤအတိုင်း နေကြ ထိုင်ကြ လိုက်နာကြသောအခါ မဟာဂန္ဓာရုံရှိ သံဃာတော်များသည် ရှေးမူအသွင်သို့ ပြန်လည်ရောက်ရှိသွားခဲ့ကြ၏၊ ဤသည်ကို အချို့သူတို့ အမြင်၌ အသစ်အဆန်းထွင်သလို ထင်ကြဟန်ရှိ၏၊ ထွင်သည်ကားမဟုတ်ပေ၊ ရှေးမူအတိုင်း ပြန်ခြင်းသာတည်း၊ သဒ္ဓါတရားရှိသူတို့အဖို့၌ကား ဤသည်ကိုပင် ကြည်ညို၍ စိတ်ဝင်စားကြလေတော့သည်။

## စာပေနှင့်သီလ ဘယ်ဟာက ကယ်မလဲ

ဆရာတော်က မကြာမကြာဩဝါဒပေးလေ့ရှိ၏၊ "စာမတတ်လို့ အပါယ်မကျနိုင်ဘူး, သီလမလုံခြုံရင်တော့ အပါယ်နှင့်တန်းနေတာပဲ၊ ဒါ့ကြောင့် စာကိုဖြည်းဖြည်းသင်ပါ, အရေးမကြီးပါနှင့် ကိုယ်ကျင့်သီလကိုသာ ဖြူလွှအောင်နေပါ၊ မညစ်နွမ်းပါစေနှင့်။ ဘုရားသာသနာထဲက နေပြီး ဘုရားကြိုက်တဲ့သီလကို မလိုက်နာလို့ ဘယ်ဖြစ်ပါ့မလဲ။

သီလတွေ အညစ်နွမ်းခံပြီး စာပေသင်ကြားကြတာဟာ စဉ်းစားဖို့ကောင်းတယ်၊ တတ်လာတဲ့စာပေတွေက အပါယ်မကျအောင် ကယ်နိုင်ပါ့မလား၊ ညစ်နွမ်းသွားရတဲ့ သီလတွေကရော အပါယ်မကျစေဖို့ ခွင့်လွှတ်ပါ့မလား၊ စဉ်းစားပါ၊ သတိထားပါ။

တစ်နေရာမှာဆိုရင် မြတ်စွာဘုရားက "စိတ်ကောင်း မရှိဘဲနဲ့, သီလတွေလဲ မလုံခြုံဘဲနဲ့ စာတွေသင်နေတာထက် အိပ်နေတာကမှ တော်သေး"တဲ့၊ ဟောထားတာရှိတယ်၊ ဟုတ်တာပေါ့၊ အိပ်နေတဲ့အချိန်မှာ ဘဝင်စိတ်ပဲ ဖြစ်တယ်၊ အကုသိုလ်စိတ်မဖြစ်ဘူး။

ဒါ့ကြောင့် ဒီကျောင်းတိုက်မှာတော့ စာပေကိုဦးစားမပေးနိုင်ဘူး၊ ရှေ့တန်းမတင်နိုင်ဘူး၊ အနေအထိုင် ကိုယ်ကျင့်သီလ ပြည့်ဝဖို့သာ ဦးစားပေးရလိမ့်မယ်၊ အဓိက ထားရလိမ့်မယ်"။

## အသက်သွေးကြောသဖွယ်

ထို့နောက် ဆက်လက်၍မိန့်ပြန်သည်၊ "ဝိနယော နာမ သာသနဿ အာယု-ဘုရားရှင်ကိုယ်တော်မြတ် ပညတ်ထားတဲ့ ဝိနည်းသီလ ကိုယ်ကျင့်တရားများ ဟာ သာသနာတော်ရဲ့ အသက်"လို့ ဆိုတယ်၊ "ဝိနယေ ဌိတေ, သာသနံ ဌိတံ-ဝိနည်းတည်နေရင် သာသနာတော်လည်း တည်နေတာပဲ"လို့ဆိုတယ်။

"ဝိနည်းတည်တယ်"ဆိုတာက စာအုပ်စာတမ်း တွေအဖြစ်နှင့် မပျောက်ပျက်ဘဲ "သိမ်းထားလို့" တည်နေတာမျိုးကို ဆိုလိုတာ မဟုတ်ဘူး၊ လက်တွေ့ ခန္ဓာကိုယ်မှာ ကျင့်သုံးသောအားဖြင့်, လေးစား လိုက်နာသောအားဖြင့် တည်မှ "ဝိနည်းတည်တယ်" လို့ဆိုလိုတာ၊ အဲလို တည်မှလည်း သာသနာတော်ရဲ့ အသက်, သာသနာတော်ရဲ့သွေးကြောဖြစ်နိုင်တာပဲ။

နောက် တစ်နည်းကတော့လဲ အဲဒီ ဝိနည်း ပိဋကတ်တွေ ပါးစပ်ထဲရထားရုံနဲ့ မပြီးသေးဘူး၊ ရတဲ့ အတိုင်း လက်တွေ့ကျင့်သုံးလိုက်နာမှသာ တည် တယ်လို့ ဆိုရတယ်၊ ဒါမှလည်း အသက်ဝင်တယ်လို့ ဆိုရတာပဲ"။

ဤသို့အားဖြင့် ဆရာတော် အရှင်ဇနကာဘိဝံသ က မဟာဂန္ဓာရုံ၏ကျင့်သုံးရမည့် ဘဝခရီးကို ပုံကြမ်း လောင်း၍ "မူ"ချထားသည်၊ ဤမူကို ဒါယကာ ဒါယိ ကာမတို့က ကြည်ညိုကြ၏၊ အမြော်အမြင်ရှိကြသော ဆရာတော်ဘုရားတို့ကလည်း အားပေးကြသည်၊ ထေရဝါဒ ကမ္ဘာ့နိုင်ငံတို့ကလည်း မျက်စိကျသည်၊ ဤသို့လျှင်ဝန်းကျင်မျက်လုံးတို့က ဝိုင်းအုံလျက် မဟာ ဂန္ဓာရုံ၏အပေါ်သို့ စိုက်၍ကြည့်လာကြတော့သည်။

## ပြည်ပနိုင်ငံများမှ ရောက်လာကြ

ဆရာတော်သည် သက်ရှိများကို ပြုပြင်သလို သက်မဲ့များကိုလည်း ပြုပြင်၏၊ သံဃာတော်များ၏ အနေအထားကို သာသနာ့ကျက်သရေဆောင်ဖြစ် အောင် ပြုပြင်ပေးရင်း တစ်ဖက်မှလည်း မိမိတို့ နေထိုင်ရာ ကျောင်းဝင်း, ဥယျာဉ် သန့်ရှင်းရေး, ကျောင်းအဆောက်အအုံများ သန့်ရှင်းရေးအတွက် ဝတ္တရားမပျက် ဆောင်ရွက်စေခဲ့သည်၊ ထိုအခါ မဟာဂန္ဓာရုံကျောင်းတိုက်ကြီးသည် သက်ရှိသက်မဲ့ အားလုံး သာယာချမ်းမြေ့ဖွယ်အသွင်ကို ဆောင်လာ တော့သည်၊ ဒါယကာ ဒါယိကာမတို့လည်း အဝင် အထွက် များလာကြကုန်၏၊ မဟာဂန္ဓာရုံကျောင်း တိုက်ကြီးက ရောက်လာသူအပေါင်းကို စိတ်နှလုံး ချမ်းမြေ့အောင် ဆွဲငင်ဆောင်သလို "လူ့သတင်း လူချင်းဆောင်"ကာ ပို၍ ကျယ်ပြန့်စွာ သိလာကြ တော့သည်။

ဤနည်းအားဖြင့် ၁၃၂၉ ခု သီတင်းကျွတ်လဆန်း ၁ ရက် (၁၅-၁၀-၆၇)နေ့တွင် အနောက်ဂျာမနီမှ ရုပ်မြင်သံကြားအဖွဲ့တစ်ဖွဲ့ ရောက်လာ၏၊ "ဆရာ တော်ဘုရားနှင့်သံဃာတော်များကိုလည်းကောင်း, ကျောင်းတိုက်ကြီးကိုလည်းကောင်း ရုပ်ရှင်ရိုက်ယူ ပါရစေ"ဟု ခွင့်တောင်းလာကြ၏၊ ခွင့်ပေးလိုက်သည်၊



နံနက် အရုဏ်ဆွမ်း စီတန်း၍ ဘုဉ်းပေးကြပုံ



ချပ်ချပ်ရပ်ရပ်နှင့်ကြည်ညိုဖွယ်ဖြစ်အောင်ပတ်ပြီး



သာသနာ့ကျက်သရေဆောင်လေးတွေ ဖြစ်ရပါမယ်



ရဟန်းတော်တစ်ပါး သင်္ကန်းရုံထားပုံ

အခွင့်ရသည်ဆိုလျှင်ပင် ဝမ်းသာအားရစွာ ရိုက်ကူးရန် ပြင်ဆင်ကြတော့၏၊ ရိုက်သင့်သည့်အခန်းများကိုလည်း ပြောကြားပြရ၏၊ ရိုက်ကူးသွားသောအခန်းတို့မှာ...

(၁)နံနက်စောစော အိပ်ရာမှ ထကြရန် တုံးကြီးခေါက်ပုံ၊

(၂)နံနက်အရုဏ်ဆွမ်း စီတန်းခံယူ၍ ဘုဉ်းပေးကြပုံ၊

(၃)ဆရာတော်ကြီးအထံ ဩဝါဒခံယူရန် သံဃာတော်များ ချဉ်းကပ်ကြပုံ၊

(၄)ဆရာတော်ကြီးက ဩဝါဒပေးပုံ၊

(၅)သံဃာတော်များ အစည်းအဝေးပြုလုပ်ရန် ကြွလာကြပုံနှင့် နာယူနေကြပုံများဖြစ်ကြ၏။

## ယဉ်ကျေးမှုတွေက ဖိတ်မန်သလော

ဤသို့ ပြည်ပနိုင်ငံများက သတင်းအရ ရောက်လာကြ၍ ရုပ်ရှင်များ ရိုက်ယူကြသောအခါ ဆရာတော်က သံဃာတော်များ အနေအထိုင် ကျစ်ကျစ်လျစ်လျစ် ပို၍ဖြစ်ရန်, ကိုယ်ကျင့်သီလ ပို၍ ပြည့်ဝရန် ဆုံးမရလေသည်၊ နောက်တစ်နေ့တွင် ပြည်တွင်းအစိုးရပိုင်းမှ အရာရှိကြီးများ ခရီးကြုံ၍ ကျောင်းတိုက်တွင်းသို့ ဝင်ရောက်အားပေး ကြည်ညိုကြပြန်၏။

၁၃၂၉ ခု သီတင်းကျွတ်လပြည့်ကျော် ၉ ရက် (၂၇-၁၀-၆၇)နေ့တွင် ဂျာမနီမှပင် နောက်ထပ် ရုပ်ရှင်အဖွဲ့တစ်ဖွဲ့ရောက်လာပြန်၏၊ ယခင်အဖွဲ့ထက်ပင် စုံစုံလင်လင် သံဃာတော်များ၏ လှုပ်ရှားဟန်တို့ကို ရိုက်ယူကြပြန်သည်၊ သံဃာများ စာတက်ကြပုံ, စာချ ကြပုံ, စာရွတ်နေကြပုံ, ဆရာတော်ကြီးထံ ဩဝါဒ ခံယူရန် သွားကြပုံ, ဩဝါဒပေးနေပုံ, ဆွမ်းစားရန် သပိတ်ကိုယ်စီဖြင့် ကြွလာကြပုံ, ဆွမ်းစားနေကြပုံ, ဆွမ်းစားအပြီး သပိတ် ခွက် ဆေးကြောနေကြပုံ ပို၍စုံလင်အောင် ရိုက်ကူးသွားကြသည်၊ သပ်သပ်ရပ်ရပ် နေထိုင်ကြသော သံဃာတော်များ၏ပုံများ ကမ္ဘာအနှံ့သို့ ပြန့်ကြရမည်ဖြစ်၍ တစ်နည်းဝမ်းသာရပေ၏။

ထို့နောက်တစ်နေ့ ဆက်လျက်ပင် ဝန်ကြီးချုပ်ဟောင်း ဦးနုက လွှတ်လိုက်သော ဒါယကာအချို့ရောက်လာကြပြန်၏။

"ဆရာတော်၏ ဩဝါဒကို ရယူလိုပါသည်၊ အသံဖမ်း၍ ယူပါရစေ"ဆို၍ ဆရာတော်က "ရဋ္ဌပါလသုတ်"ရဟန်းပြုခန်းကို ဟောပေးတော်မူလိုက်၏။

ဤသို့လျှင် ဗုဒ္ဓယဉ်ကျေးမှုများကမင် လူကြီးလူကောင်းတို့ကို ခေါ်ငင် ဖိတ်မန်နေသလောဟု ထင်ရလေတော့သည်။

## မရိုးနိုင်သော ဗုဒ္ဓယဉ်ကျေးမှု

၁၃၂၉ ခု သီတင်းကျွတ်လပြည့်ကျော် ၁၃ ရက် (၃၀-၁၀-၆၇) နေ့တွင် ပြင်သစ် (ကုလသမဂ္ဂ) ကျန်းမာရေးဌာနမှ ရုပ်မြင်သံကြားအဖွဲ့တစ်ဖွဲ့ ရောက်လာကြပြန်၏၊ ထိုအဖွဲ့ကလည်း "ရုပ်ရှင်ရိုက်ပါရစေ"ဟု တောင်းပန်၍

(၁) နံနက်စောစော ၄ နာရီ အိပ်ရာထရန် "ပေတုပစ္စယော"စသော ၂၄ပစ္စည်းကို ဆို၍ ၂၄ ချက် တုံးကြီးခေါက်ပုံ၊

(၂) သံဃာတော်များ စီတန်းဆွမ်းခံပုံ, ဆွမ်းစားကြပုံ၊

(၃) ဆရာတော်ကြီးထံ ဩဝါဒခံယူနေကြပုံ, ဩဝါဒပေးနေပုံ၊

(၄) သံဃာတော်များက သံပြိုင်ညီညာ ပရိတ်ရွတ်နေကြပုံ၊

(၅) ဆရာတော်ကြီး ကျမ်းစာရေးသားပြုစုနေပုံတို့ကို ရုပ်ရှင်ရိုက်ကူးသွားကြ၏၊ အချို့ကို အသံပါ သွင်းယူသွားကြ၏၊ ၁၃၂၉ ခု တန်ဆောင်မုန်းလဆန်း ၁၀ ရက် (၁၁-၁၁-၆၇)နေ့တွင် ဝန်ကြီးချုပ်ဟောင်း ဦးနုနှင့်သားသမီးများ, မြေးများလာကြ၏၊ ဆရာတော်က ယခုလို လွှတ်လပ်သည့်အခါတွင် ငြိမ်ငြိမ်သက်သက် လေးလေးနက်နက် အေးအေးချမ်းချမ်းဖြင့် ဘာသာရေးတရားတွေ လိုက်စားဖို့ကောင်းကြောင်း ဟောတော်မူလိုက်သည်။

ဤသို့လျှင် မဟာဂန္ဓာရုံကျောင်းတိုက်သို့ ပြည်တွင်းပြည်ပမှ အထက်ပိုင်းပုဂ္ဂိုလ်များ, အရာရှိများ အဝင်အထွက် များလာကြသည်၊ များအောင် တမင်လုပ်ထားသည်ကား မဟုတ်ပေ၊ လေးစားဖွယ်ဖြစ်အောင်နေလျှင် လေးစားလောက်သော ပုဂ္ဂိုလ်ကြီးများ ချဉ်းကပ်လာတတ်ကြသည်ကို ဖော်ပြခြင်းသာ ဖြစ်သည်။

ဝိနည်းတော်တရားအတိုင်း လေးလေး စားစား နေထိုင်ပါလျှင် "မရိုးနိုင်သော ဗုဒ္ဓယဉ်ကျေးမှု တစ်ရပ်" ဖြစ်ရသည်ကား အမှန်ပင်တည်း။

## ဂန္ဓာရုံ၏ ဂန္ဓာရုံရနံ့ ထုံပျံ့ကြိုင်လှိုင်သင်း

### ဂုဏ်ရနံ့သင်း၍ သတင်းကြားလို့တဲ့

ကမ္ဘာ့အနောက်ဖျားနိုင်ငံများ၌ မဟာဂန္ဓာရုံကျောင်းတိုက်၏ ဂုဏ်သတင်းရနံ့ သင်းပျံ့သလို ကမ္ဘာ့အရှေ့ဖျား ဂျပန်နိုင်ငံ၌လည်း မဟာဂန္ဓာရုံ၏ ဂုဏ်သတင်း ထုံသင်းသည်သာ၊ ၁၃၂၄ ခု (၁၉၆၃ ခု)နှစ်က ဖြစ်သည်၊ ဂျပန်ပြည်က ရုပ်ရှင်အဖွဲ့တစ်ဖွဲ့ လာကြ၏၊ မြန်မာနိုင်ငံအစိုးရ သာသနာရေးဌာနမှ ဦးခင်မောင်ကျော် ခေါင်းဆောင်၍ လာကြသည်၊ "မဟာဂန္ဓာရုံ၏ တစ်နေ့တာလုပ်ငန်းတို့ကို ရုပ်ရှင်ရိုက်ပြီး ယူပါရစေ"ဟု တောင်းပန်ကြ၏၊ အခွင့်ရသည်နှင့် ညအိပ်ကြပြီးလျှင် နံနက်စောစော ၄ နာရီ တုံးကြီး (အုံးမောင်းကြီး) ခေါက်သည်မှစကာ ရုပ်ရှင်ရိုက်ကြလေသည်၊ နံနက်စောစော ၄ နာရီထိုးလျှင် တာဝန်ရှိသော ရဟန်းတော်တစ်ပါးက မန်ကျည်းပင်ကြီး၌ ချိတ်ဆွဲထားသော အလျား ၈ ပေခန့်, အချင်း ၁ ပေခန့် လုံးပတ် ၃ ပေခန့်ရှိ စနစ်တကျထွင်း၍ ပြုလုပ်ထားသည့် သစ်သားတုံးကြီးကို စတင့်ထိုးခတ်သည်။

ထိုသို့ ထိုးခတ်ရာတွင် စနစ်တကျ ညွှန်ကြားထားချက်အရ "ဟေတုပစ္စယော"ဟု နှုတ်က ဆို၍ ပြီးသည်နှင့်တစ်ပြိုင်နက် ဒုံးခနဲနေအောင် တစ်ချက်ထိုး, "အာရမဏပစ္စယော"ဟု ဆိုပြီးသည်နှင့် တစ်ပြိုင်နက် ဒုံးခနဲနေအောင် တစ်ချက် ထိုး, ဤသို့ စသည်ဖြင့် ပဋ္ဌာန်းဒေသနာတော်ကြီး၏ အခြေခံ ၂၄ ပစ္စည်းကို ဆို၍ ၂၄ ချက်ထိုးကာ နိုးပါလေတော့သည်၊ မဟာဂန္ဓာရုံတိုက်ကြီးတစ်ခုလုံး လှုပ်လှုပ် ရွရွ နိုးလာကြတော့၏၊ ဤသို့ ဆို၍ ထိုးခတ်ခြင်းဖြင့် ရုပ်ဓာတ် နာမ်ဓာတ် နှစ်ရပ်လုံးပြန့်အောင် ဖြန့်ရာ ရောက်သောကြောင့် "အန္တရာယ်ကင်း, ဘေးရန်ရှင်း, ကောင်းခြင်းမင်္ဂလာ ဖြစ်စေသည်"ဟု အစဉ်အလာကပင် ယုံကြည်ကြသည်။

ဤအခန်းကို စတင်ရိုက်ကူးကြ၏၊ အဘယ့်ကြောင့်ဆိုသော် မဟာဂန္ဓာရုံတိုက်ကြီး၏ တစ်နေ့တာ လုပ်ငန်းစက်ကြီး စတင်လည်ပတ်ဖို့ရာ ဥသြကြီး ဆွဲသည်နှင့် ပမာတူသောကြောင့် ဖြစ်ပေသည်။

## ဂန္ဓာရုံစက်ကြီးလည်ပတ်နေပုံ

ဦးစွာပထမ တုံးကြီးခေါက်ပြီးနောက် သံဃာတော်များ လှုပ်လှုပ်ရွရွ အိပ်ရာမှ ထကြပုံ, မျက်နှာသစ် ကိုယ်လက် သုတ်သင်မှုများ ပြုလုပ်ကြပုံ, သာမဏေအချို့က အရုဏ်ဆွမ်းချက်ကြပုံ, သီးသန့်ဇရပ်ဝင်းမှ ဒါယိကာမများက ဟင်းချက်ကြပုံ, ထိုအခိုက်တွင် ကြွင်းသော ရဟန်း သာမဏေတို့က မေတ္တာဘာဝနာ ပွားများကြပုံ, အရုဏ်တက်လာသောအခါ သံချောင်းကို ဖြည်းညင်းစွာ ခေါက်၍ တစည်းတဝေးတည်း ဆွမ်းစားကြပုံ, ထို့နောက် တုံးကလေးခေါက် အချက်ပေး၍ သံဃာများစုပြီးလျှင် ဆရာတော်ဘုရားကြီးအထံ ဩဝါဒခံယူရန်သွားကြပုံ, ဩဝါဒပေးတော်မူပုံ, ဆရာတော်ဘုရားကြီးက ဆက်လက်၍ စာဝါပို့ချပုံတို့ကို ရိုက်ကူးယူကြသည်။

ထို့နောက် နံနက် ၇ နာရီခန့်တွင် အမရပူရမြို့ထဲသို့ သံဃာတော်များ ဆွမ်းခံဝင်ကြပုံ, ဆွမ်းခံနေပုံ, ပြန်လာပုံတို့ကို အစုံအလင် ရိုက်ကူးကြ၏။

သံဃာတော်များ ဆွမ်းခံသွားခိုက်တွင် ကျောင်းတိုက်၌ ဆရာတော်ဘုရားကြီးတစ်ပါးတည်း ကျန်ရစ်ကာ ကျမ်းစာပြုစုရေးသားနေပုံမှာလည်း ကြည်ညို၍ မကုန်နိုင်အောင် ရှိပါဘိ၏၊ ဤရုပ်ပုံကိုလည်း အထူး ရိုက်ကူးမှတ်တမ်းတင်ကြသည်။

ဆွမ်းခံ၍ ပြန်ရောက်သောအခါ တုံးကလေးခေါက်၍ စာတက်ကြပြန်ပုံ, စာချဘုန်းကြီး အသီးသီးတို့က စာပို့ချကြပုံ, နံနက် ၁၀ နာရီတွင် အားလုံး အချက်ပေး ရပ်နား၍ ရေမိုးချိုးကြပုံ, ၁၀ နာရီခွဲတွင် သံချောင်းခေါက်၍ တစ်နေရာတည်းမှာ စုပြီး နေ့ဆွမ်း ဘုဉ်းပေးကြပုံ အလုံးစုံကို ရိုက်ကူးယူကြသည်။

## နေ့သန့်စင်ဖို့ ခေတ္တနား

နေ့ဆွမ်း ဘုဉ်းပေးအပြီးတွင် *"နေ့သန့်စင်"ရန် ခေတ္တခဏမျှ အနားပေး၍ ငြိမ်သက်စွာနေကြရ၏၊ ထိုမှနောက် နေ့လယ် ၁၂ နာရီခွဲအရောက်တွင် အချက်ပေးတုံးကလေး ခေါက်ကာ ကိုယ့်ဆိုင်ရာ အလုပ်တို့ဖြင့် လှုပ်လှုပ်ရွရွ ဖြစ်လာကြပုံကိုလည်း ရိုက်ကူးကြ၏၊ ကျောင်းတိုက်အတွင်း သီတင်းသုံးဖော် သံဃာတော်များ စာတက်ကြပုံ, စာချဘုန်းကြီးတို့က ကမကထ ကြောင့်ကြစိုက်၍ တာဝန်ယူကြပုံတို့ကိုလည်း စုံလင်အောင် မှတ်တမ်းတင်နေကြ၏။

ညနေ ၄ နာရီထိုးသောအခါတွင်ကား တုံးကလေး ခေါက်၍ အချက်ပေးလိုက်သည်နှင့် အားလုံး စာဝါပို့ချ သင်ယူမှုများ ရပ်နားကြရ၏၊ စာအုပ်များ ပိတ်ပြီးလျှင် ကျောင်းတိုက်သန့်ရှင်းရေးအတွက် တံမြက်လှည်းခြင်း, အမှိုက်ကျုံးခြင်း, ကျောင်းတလင်းမြေပြုပြင်ခြင်း, မိုးမောက်ရာကို ဖြို၍ နိမ့်ရာတွင် ဖြည့်သိပ်ခြင်း, ပေါင်းမြက်သင်ခြင်း, ကျောင်းအဆောက်အအုံတို့ကို ဖုံသုတ်ခြင်း, ရေခပ်ခြင်း, ထင်းဖြတ်ခြင်း, သောက်ရေအိုး သုံးရေအိုးတို့၌ ရေဖြည့်ရခြင်း, သောက်ရေခွက်တို့ကို ပွတ်တိုက် ဆေးကြောခြင်း စသော သေနာသန ဝေယျာဝစ္စတို့ကို ကိုယ့်တာဝန်နှင့်ကိုယ် ပြုလုပ်ကြရ၏၊ ဤသည်တို့ကိုလည်း မလွတ်အောင် ရိုက်ယူနေကြသည်။

ညနေဆည်းဆာရောက်သောအခါ သံဃာတော်များ၏ ကျန်းမာရေးဆေးပစ္စည်းအဖြစ်သုံးစွဲရန် အမြဲတမ်းအားဖြင့် ထန်းလျက်ရည် ဝေငှ၏၊ (ရံဖန်ရံခါအားဖြင့် မန်ကျည်း, သံပုရာ စသော အဖျော်ယမကာတို့ကို ဝေငှ၏၊) ဤကိစ္စ ဤမြင်ကွင်းကိုလည်း မချွင်းစေဘဲ မှတ်တမ်းတင်ကြသည်။

## ညဦးပိုင်းကာလ သမယတွင်

ညဦးဦး မှောင်စပျိုးချိန်တွင်ကား "ဖားစည်" ကြေးမောင်းကြီး အသံက သာယာဖြည်းညင်းစွာ တစ်ချက်ချင်း ပေါ်လာသည်၊ ထိုအခါ ကိုယ်နေရာနှင့်ကိုယ်, ကိုယ့်အုပ်စုနှင့်ကိုယ်စု၍ ဘုရားဝတ်တက်ကြ၏၊ နာရီဝက်ခန့်မျှအကြာ မေတ္တာပို့၍ အပြီးသတ်ကြသည်။

ထိုမှတစ်ဖန် တစ်နေ့တာ သင်ယူကျက်မှတ်ခဲ့ပြီးသော စာတို့ကို မမေ့အောင် ပြန်လည်၍ ရွတ်အံနေကြသည်၊ ည ၉ နာရီရောက်သောအခါ တုံးကလေးခေါက်အချက်ပေး ရပ်နားစေ၍ တရားဘာဝနာ ကိုယ်စီ ကိုယ်င ရှုမှတ်ကြရပြန်သည်။

တစ်နာရီခန့်မျှကြာသောအခါ ထပ်မံတုံးခေါက်အချက်ပေး၍ တစ်နေ့တာလုပ်ငန်းအားလုံး ပြီးဆုံးစေလျက် ကိုယ်လက်သုတ်သင်ကြပြီးလျှင် အားလုံး အိပ်ရာဝင်ကြတော့သည်၊ ဂန္ဓာရုံ၏ စက်ကြီးကိုလည်း တစ်နေ့တာ လည်ပတ်မှုအတွက် ရပ်နားခွင့်

---

* "နေ့သန့်စင်"ဟူသည် ဘုရားလက်ထက်ကပင် ရှိခဲ့သော မူတစ်ခု ဖြစ်၏၊ ဒိဝါဝိဟာရဟု ခေါ်သည်၊ ဆွမ်းစားအပြီး ကျန်းမာရေးအတွက် အစာကြေကျက်ရန် ဆွမ်းလုံးစီခြင်း, ဆွမ်းရှင်များအပေါ် မေတ္တာပွားခြင်း, တရားဘာဝနာရှုမှတ်ခြင်း, အရိယာတို့အဖို့ သမာပတ်တို့ဖြင့် ငြိမ်သက်စွာနေခြင်းတို့ပင် ဖြစ်ပေသည်။

ပေးလိုက်သည်၊ (နောက်တစ်နေ့ နံနက် ၄ နာရီမှ စ၍ ဤပုံအတိုင်း ပြန်၍ လည်လိမ့်မည်။)

ရုပ်ရှင်အဖွဲ့သည် မဟာဂန္ဓာရုံ၏ သက်ရှိများကို သာမက သက်မဲ့များဖြစ်သော သာယာလှသည့် မဟာဂန္ဓာရုံကျောင်းတိုက် ဥယျာဉ်ကြီး၊ ကြည်ညို ဖွယ်ကောင်းသည့် စေတီကြီး၊ စနစ်တကျ အစီအစဉ် ကျသည့် သပ်ရပ်လှသော အဆောက်အအုံများ၊ ကမ္မဋ္ဌာန်းကျောင်းကလေးများ၊ ဝန်းကျင်တစ်ခို စိမ်း စိုသော အရာများပါ အလွတ်မပေးပေ၊ ဤမြင်ကွင်း အားလုံးကို ရုပ်ရှင်အဖွဲ့က ရိုက်ကူးယူကြ၏။

"ရိုက်ကူးခွင့်ပေးသဖြင့် ကျေးဇူးတင်ပါသည်"ဟု ဆို၍သွားကြသည်။

## မတ်တတ်ရပ်၍လက်အုပ်ချီ

ဤဖလင်များကို ကမ္ဘာ့အရှေ့ဖျားနိုင်ငံ ဂျပန်၌ ပြသောအခါ အနောက်ဖျားနိုင်ငံတို့နှင့်မတူ တစ်မူ ထူးခြား၏၊ အဘယ်သို့နည်း၊ မြန်မာနိုင်ငံ၌ ရုပ်ရှင်ရုံ များတွင် ပြည်ထောင်စုအလံ စတင်ပေါ်လာသော အခါ တစ်ရုံလုံး မတ်တတ်ရပ်၍ အလေးပြုကြသလို ယခု ဂျပန်နိုင်ငံ၌ မဟာဂန္ဓာရုံကျောင်းတိုက်နှင့် သံဃာတော်များကိုလည်း မြင်ရော အားလုံးပရိသတ် ထိုင်ရာမှထကာ မတ်တတ်ရပ်၍ လက်အုပ်ချီကုန် ကြတော့သည် ဆို၏၊ မည်သူမျှ မတိုက်တွန်းဘဲ ဝမ်းတွင်းနှလုံးသား သဒ္ဓါတရားတို့က တိုက်တွန်းကြ ခြင်း ဖြစ်ပါလိမ့်မည်၊ "သူတို့၏ ဆန့်ထားသော လက် များသည် အလိုလို စုသွား၍ နုထွားသောကြာဖူးငုံ များပမာ ဖြစ်ကုန်ကြပါတော့သည်"ဟု ဆိုကြ၏။

"အို၊ ဗုဒ္ဓရှင်တော်မြတ်ဘုရား...ရှင်တော်မြတ် ဘုရား၏ ညွှန်ကြားမိန့်မှတ် ပညတ်ခဲ့သော ဝိနည်း သိက္ခာ အဖြာဖြာတို့သည် ယခုအခါတွင်လည်း ခေတ်မီလျက်၊ ကြည်ညိုသူများရှိလျက်ပင် ဖြစ်ပါ သေးသည် အရှင်ဘုရား"။

ဤသို့အားဖြင့် "ကြည်ညိုဖွယ်ကောင်းသော သံဃာနှင့်သာယာလှသော ဂန္ဓာရုံရှုခင်း"တို့သည် ဂျပန်ပြည်သူများ၏ နှလုံးသားကို ထူးခြားစွာ အေးမြ စေလေ၏၊ ဂျပန်ပြည်တစ်ဝန်းလုံး ရောက်လေရာ အရပ်ရပ်တွင် ရင်ထဲ နှလုံးထဲ ထူးကဲစွာ အတူတူ ခံစားကြရသည်။

ထို့ကြောင့် "ဂန္ဓာရုံကို ရောက်ကို ရောက်အောင် သွားဦးမည်"ဟု အားခဲသူများ ရှိလာကြသည် ဆို၏။

## ကမ္ဘာ့အရှေ့ဖျား၊အနောက်ဖျား

၁၉၇၄ ခုနှစ်တွင် ဒုတိယအကြိမ် လာ၍ ရိုက်ကူး ကြပြန်၏၊ မဟာဂန္ဓာရုံတိုက်ကို နှစ်ခြိုက်စွာ စိတ်ဝင် စား နေကြသည်၊ ရုပ်ရှင်များကို ကြည့်ပြီးနောက် ဂျပန်နိုင်ငံမှ ပို၍ အရောက်အပေါက် များလာကြ ၏၊ ဂန္ဓာရုံသို့ ရောက်လျှင် အလုအယက် သူ့ထက်ငါ ဓာတ်ပုံရိုက်၍ ယူနေကြသည်။

ဤသို့အားဖြင့် မဟာဂန္ဓာရုံ၏ သင်းထုံမွှေးပျံ့ ဂုဏ်ရနံ့တို့သည် ကမ္ဘာ့အရှေ့ဖျားကို ထုံပျံ့လျက် ရှိကြောင်း သူတော်ကောင်းတို့မှ တစ်ဆင့် သိကြ၏။

ထိုမှတစ်ပါး ကမ္ဘာ့အနောက်ဖျားမှလည်းလာ၍ ရုပ်ရှင်ရိုက်ကြသည်ပင်။

ဤသို့ အရှေ့ဖျား အနောက်ဖျားသို့တိုင် ရုပ်ရှင် များ ပျံ့နှံ့ကုန်ကြပြီးနောက် အမရပူရ မဟာဂန္ဓာရုံ သို့ ကမ္ဘာလှည့်ဧည့်သည်များ ထွက်ဝင်မစဲ တဖွဲဖွဲ ဖြစ်နေကြတော့သည်၊ ၁၉၆၄ ခုမှ ၁၉၇၈ ခုအထိ မြန်မာနိုင်ငံသို့ ကမ္ဘာလှည့်ဧည့်သည်များ အလွန် များပြားလာသည်ဟု ဆိုင်ရာမှ ကြေညာချက်ထုတ် ပြန်ခဲ့၏၊ ထိုခရီးသည်တို့၏ လှည့်လည်ကြည့်ရှု လေ့လာဖို့အစီအစဉ်တွင်"မဟာဂန္ဓာရုံ"လည်း တစ်ခု အပါအဝင်ဖြစ်နေခဲ့၏၊ ပန်းဝတ်ရည်ရှိရာ ပျားပိတုန်း တို့ လာသလို ကမ္ဘာ့အရပ်ရပ်မှ စုံစမ်းမေးမြန်းလျက် ရောက်၍ ရောက်၍ လာတတ်ကြလေသည်။

# တာဝန်သိသူမှာ တာဝန်ရှိသည်

## နှစ်ကျမ်းပြိုင် သုံးကျမ်းပြိုင်

ဆဋ္ဌသင်္ဂါယနာအဖွဲ့အတွင်းက ဆဋ္ဌသင်္ဂါယနာကိစ္စများဖြင့် မန္တလေးနှင့်ရန်ကုန် စုန်ချည်ဆန်ချည် ကြွတော်မူခဲ့၏။

သို့ဖြစ်၍ ချပို့နေသော စာဝါများ ကြိုကြားကြိုကြား ပျက်ခဲ့ရသည်၊ ဆဋ္ဌသင်္ဂါယနာပွဲကြီး ပြီးသော အခါတွင်ကား သက်တော်မှာလည်း ၅၀ ကျော်လာပြီ ဖြစ်၏၊ အသက်တစ်ရာတမ်းနှင့်တွက်လျှင် ထက်ဝက်ပင် ကျိုး၍လာချေပြီ။ "ဘာသာဋီကာအဖြစ် ဖွင့်ဆိုရန် ရည်မှန်းထားသော ကျမ်းစာတို့ကလည်း များစွာရှိသေး၏၊ ခပ်သုတ်သုတ်နှင့်မှ ဖြစ်ချေတော့မည်" ဟု ယူဆလေသလော မပြောတတ်ပေ၊ ရှေ့ပိုင်းတုန်းက ကျမ်းစာကို တစ်ကျမ်းပြီးမှ တစ်ကျမ်းသာ ရေးသားပြုစုလာခဲ့သော်လည်း သင်္ဂါယနာ၏ နောက်ပိုင်းတွင်ကား တစ်နေ့လျှင် စာဝါ ၃ ဝါ ချပို့၍ ကျမ်းစာကိုလည်း ၃ ကျမ်းပြိုင်တူ ရေးလေတော့သည်။

ထိုအချိန်က ဖြစ်ပါသည်၊... ပါရာဇိကဏ်၊ သီလက္ခန်၊ အဋ္ဌသာလိနီဟူသော သင်ရိုးအဋ္ဌကထာကြီး ၃ ကျမ်းကို စီတန်းထားပြီးလျှင် မူရင်းတစ်ကျမ်းတစ်ကျမ်းကို ချပို့စဉ်မှာ အခြားသင့်တော်သော နှစ်ကျမ်းကို ရံစေလျက် တစ်နေ့လျှင် ၃ ကျမ်း ၃ ကျမ်း ချပို့ပါသည်၊ ချပို့ရုံမျှမက ... ယင်း ကျမ်းစာ ၃ စောင်တို့ကို အချိန်မီ ချပို့နိုင်အောင် နေ့စဉ်နေ့တိုင်း ကြည့်ရှုရခြင်း၊ အဓိပ္ပာယ်ကြံဆခြင်း၊ နားလည်လောက်အောင် အဖွင့်များ ရေးသားရခြင်း၊ ပြင်ဆင်ခြင်းတို့ဖြင့် လုံ့လဝီရိယ ကြီးမားတော်မူရ၏။

"ဤ သင်ရိုးအဋ္ဌကထာကြီး ၃ ကျမ်းကို ဘာသာဋီကာဖြင့် ဖွင့်ဆိုလိုသောဆန္ဒ ပြင်းပြခဲ့၏"ဟူ၍ ပါရာဇိကဏ်ဘာသာဋီကာနိဒါန်းမှာပင် ဆရာတော်ကိုယ်တိုင် ဝန်ခံထားသည်၊ ဘာကြောင့် ဖွင့်ဆိုလိုသနည်း? "ယခုခေတ် စာသင်သားတို့သည် ထက်အောက် ပါဠိတော် အဋ္ဌကထာများကို ပေါက်မြောက်အောင်ကြိုးစားကြသူ နည်းပါးကုန်ကြပြီ၊ စာမေးပွဲအောင်မှု လောက်ကိုသာ ပဓာနထား၍ ဖြတ်လမ်းက သွားနေကြပြီ။

ဤစာသင်နည်းမျိုးဖြင့်သာဆိုလျှင် ကျမ်းရင်းကိုလည်း မမိ၊ စာသွားကိုလည်း မသိ၊ အဋ္ဌကထာ ဋီကာကိုလည်း မကြည့်တတ် ဖြစ်ချေတော့မည်။

ထို့ကြောင့် မိမိက တာဝန်သိစွာ ဖြင့် နိဿယ အဓိပ္ပာယ် စုံလင်သော ဘာသာဋီကာသစ် ဖွင့်ဆိုမှ ဖြစ်တော့မည်" ဟု ရည်ရွယ်ချက် ထားသောကြောင့်" ဟု မိန့်ဆိုထားသည်။

## ငါးပွက်ရာ ငါးစာမချလို

ထိုအချိန်က ဆရာတော်နှင့်တွေ့ကြုံရသော အချို့ဆရာတော်များက "ယခုအချိန်မှာ ဘာစာဝါများ ချပို့ ရေးသားနေပါသလဲ"မေးကြလေသည်၊ ထိုအခါ "ပါရာဇိကဏ်အဋ္ဌကထာကို ချပို့၍ ပါရာဇိကဏ်ဘာသာဋီကာ ရေးသားနေပါသည်"ဟု ပြန်လည်ဖြေဆိုသောအခါ "ဘယ့်နှယ် ဒီအဋ္ဌကထာကြီးတွေက စာသင်သားတိုင်း မကိုင်ချင်၊ မတက်ချင်၊ စိတ်မဝင်စားတဲ့ ကျမ်းစာများ မဟုတ်ပါလား၊ ရေးသားထုတ်ဝေလို့ကော တွင်ပါ့မလား၊ ယခုခေတ် အကိုင်များ အသုံးများနေတာက စာမေးပွဲပြဋ္ဌာန်းတဲ့ ကျမ်းစာများ မဟုတ်ပါလော" ဟု ထောက်ပြကြသတတ်။

ဤအတွေ့အကြုံလေးများကို ဆရာတော်က ဤအဋ္ဌကထာကြီးများကို ချပို့ရင်းပင် ဤသို့ ပြန်လည် မိန့်ကြားဖူးပါ၏၊ "ဘုန်းကြီးက စာမေးပွဲကျမ်းစာတွေချည်း တစ်အုပ်ပြီးတစ်အုပ် ရေးသားထုတ်ဝေရင် တွင်မှာ သိပါတယ်၊ ရောင်းမလောက်အောင် ကောင်းမှာလဲ သိပါတယ်၊ အဲလိုလုပ်ရင် "ငါးပွက်ရာ ငါးစာချ"သလို ဖြစ်မှာပေါ့၊ ဘုန်းကြီး ရည်ရွယ်ချက်က အဲလို မဟုတ်ပါဘူး။

စာမေးပွဲအောင်ဖို့အဓိကမဟုတ်ဘူး၊ အဋ္ဌကထာကြီးတွေကို ကြည့်ပြီး ပါဠိတော်တွေရဲ့ အဓိပ္ပာယ်ကို သိပါစေ၊ အဋ္ဌကထာအသွားကိုလဲ နားလည်ပါစေ၊ ကျမ်းစာတွေ တတ်သိပါစေ၊ တတ်သိပြီး ကျင့်နိုင်ပါစေ၊ သဒ္ဓါတရားများ တိုးပွားပါစေ၊ သာသနာမှာ အကျိုးများပါစေ၊ နောက်ထပ် မှီခိုလောက်သော ကျမ်းစာကြီးများ မပေါ်ပေါက်သေးသမျှ ဤဘာသာဋီကာများဟာ အမှီအခို ဖြစ်ပါစေဆိုတဲ့ ရည်ရွယ်ချက်နှင့် ရေးသားနေတာပါ"။

"ဒီကျမ်းစာကြီးတွေ တွင်ပါ့မလား၊ ကောင်းပါ့မလား ဆိုတာကလဲ ဘုန်းကြီးက ယုံကြည်ပြီးသားပါ၊ ဘယ်လိုလဲဆိုတော့ ... တစ်ချိန်တုန်းက ရန်ကုန်တက္ကသိုလ်ကြီးကို နောက်ခံထားပြီး ရေးသားတဲ့ ဝတ္ထုတစ်ပုဒ်ထွက်ဖူးသတဲ့၊ ဝတ္ထုဇာတ်လမ်းကတော့ ရိုးရိုးပါပဲတဲ့၊ ဒါပေမယ့် နောက်ခံကြီးတွေကကောင်းတော့၊ ခိုင်ခံ့တော့ ဒီဝတ္ထုလဲ နာမည် ကျော်ကြားသွားသတဲ့။

အဲဒီအတိုင်းပဲပေါ့ကွာ၊ အခု ဘုန်းကြီးတို့ ဒီ အဋ္ဌကထာကြီးများကလဲ မြတ်စွာဘုရားရဲ့ ပါဠိတော်ကြီးတွေကို အနက် အဓိပ္ပာယ် ဖွင့်ဆိုထားတဲ့ အဋ္ဌကထာကြီးများဆိုတော့ ခိုင်တယ်၊ ခံ့တယ်၊ တည်ငြိမ်တယ်၊ အဲဒီ ခိုင်ခံ့တည်ငြိမ်တဲ့ အဋ္ဌကထာကြီးများဟာလဲ ကောင်းရမှာပေါ့" ဟူ၍ပင် ခပ်ရွှန်းရွှန်း မိန့်မြွက်ဖူးလေသည်။

## စိတ်ရော ကိုယ်ပါ အလုပ်ထဲနှစ်၍

ဤပါရာဇိကကဏ်ဘာသာဋီကာကြီး၏အလျင် ရှေးဦးစွာ သင်္ဂါယနာခေတ်အတွင်းက သွားရင်းလာရင်းပင် ဗြဟ္မဇာလသုတ်ဘာသာပြန်၊ သာမညဖလသုတ်ဘာသာပြန်၊ ပုဒ္ဓဝင် အမေးအဖြေ၊ ရုပ်စုံ ဗုဒ္ဓဝင်၊ ရုပ်ပုံရှင်ကျင့်ဝတ်၊ ဘာသာသွေး၊ ပါဠိသိက္ခာနှင့်သဒ္ဒါကျဉ်းတို့ကိုလည်း ရေးသား ပြုစုခဲ့ပြီး ဖြစ်၏၊ ဤပါရာဇိကဏ်ဘာသာဋီကာကြီးကိုကား ၁၃၁၉ ခုနှစ်မှ ၁၃၂၃ ခုနှစ်တိုင် လေးနှစ်ကြာမျှ ပို့ချရေးသား ဖွင့်ဆိုခဲ့ရ၏။ ဤအဋ္ဌကထာကြီးနှင့်တစ်ပြိုင်နက်တည်း အချိန်လွှဲ၍ ချပို့နေခဲ့သော ကင်္ခါဘာသာဋီကာ၊ အလင်္ကာဘာသာဋီကာတို့ကား ထို့ထက်စော၍ ပြီးစီးခဲ့ကြသည်၊ ပြီးစီးသည်နှင့်ဤ အဋ္ဌကထာကြီး၏ အရံအဖြစ် နောက်ထပ် ကျမ်းစာနှစ်စောင်ကို ရွေးကာ တစ်နေ့လျှင် သုံးဝါ အမြဲချပို့ရေးသားနေပြန်သည်။

ပါရာဇိကကဏ်ဘာသာဋီကာကြီးအပြီးတွင် အဋ္ဌသာလိနီအဋ္ဌကထာကြီးကို ဆက်လက်ချပို့၍ ဘာသာဋီကာ ဖွင့်ဆိုခဲ့ပြန်ရာ လေးနှစ်အကြာမှာပင် (၁၃၂၇ ခု တော်သလင်းလတွင်) အမာခံ ဘာသာဋီကာကြီး တစ်စောင် ပြီးစီးပြန်လေသည်၊ တစ်နေ့လျှင် သုံးဝါ အရံအဖြစ် ပါဝင်ခဲ့ကြသော ဋီကာကျော်နိဿယနှင့် ဘေဒစိန္တာဘာသာဋီကာတို့ကား... ထိုထက်စော၍ ပြီးစီးခဲ့ကြသည်၊ ပြီးစီးသည်နှင့် နောက်ထပ်နှစ်ဝါ ရွေးချယ်၍ ပို့ချရင်း ရေးသားနေပြန်သည်၊ ဆရာတော်ကား နေ့အားမထား၊ ရက်အား မယူ၊ တစ်ခုတည်းသော အာရုံ၌သာ စူးစိုက်၍ စိတ် စေတနာ သဒ္ဓါတရားတို့ကို လွှတ်ထားသည်၊ သို့နှင့် အရံဖြစ်သော ကစ္စာယနသာရဘာသာဋီကာနှင့် ပါစိတ်ဘာသာဋီကာကျမ်းစာ နှစ်စောင်တို့လည်း ပြီးစီးခဲ့ပြန်လေသည်။

## တစ်ပြိုင်နက်စ တစ်ပြိုင်နက်ပြီး

ဤကျမ်းစာနှစ်ဆူကား ထူးခြား၏၊ အမည်ကလည်း စူဠဝါနှင့်ပရိဝါ၊ ညီအစ်ကိုပမာ ဖြစ်၏၊ စတည်ပုံနှင့် ပြီးစီးပုံကိုလည်း ရှုဦးလော့၊ ဆိုခဲ့ပြီးအတိုင်း ရှေးရှေးဘာသာဋီကာတို့ကို ချပို့အပြီး ၁၃၂၇ ခု သီတင်းကျွတ်လထဲ၌ တစ်နေ့တည်း၌ပင် ချပို့မှု အစီအစဉ်ကို စတည်ကြ၏၊ နံနက်ပိုင်း ဩဝါဒပေးအပြီး ဆွမ်းခံမသွားခင် ပရိဝါအဋ္ဌကထာကိုလည်းကောင်း၊ နေ့စဉ်မှန်မှန် ချပို့ရေးသားခဲ့သည်၊ အဋ္ဌကထာနှစ်ဆူလုံး ဝိနည်းအဋ္ဌကထာချည်းများလည်း ဖြစ်ကြ၏။

ဤသို့လျှင် သဒ္ဒါတရားသန်သန်ဖြင့် နေ့စဉ်မှန်မှန် ကြိုးစားလာခဲ့ရာ ၁၀ လခန့်အကြာ ၁၃၂၈ ခု ဝါခေါင်လဆန်း ၁၃ ရက်နေ့တွင် "တမင်တကာ မကြိုးစားရဘဲ" ကျမ်းစာနှစ်ဆူလုံး တစ်နေ့တည်း, တစ်ပြိုင်နက်တည်း ပြီးဆုံးသွားလေသည်၊ ထူးဆန်းအံ့ဩဖွယ်ကောင်းလေစွ။

ယခုအခါ ဆရာတော် အရှင်ဇနကာဘိဝံသ၏ စေတနာအား သဒ္ဒါအားတို့ဖြင့် ကြိုးစားလာခဲ့သည်မှာ ဝိနည်းဘက်ဆိုင်ရာ ရည်မှန်းသလောက် အထမြောက်နေပေပြီ၊ ပါရာဇိကဏ်ဘာသာဋီကာမှစ၍ ဝိနည်းအဋ္ဌကထာအားလုံး ပြီးဆုံးအောင် ဖွင့်ဆိုနိုင်လေပြီ။

ဆရာတော်က ဤသို့ မိန့်ဆို၏၊ "မိမိ၏ ကျေးဇူးရှင် ဆရာတော်များသည် ဝိနည်းကို အထူးလေးစားတော်မူကြ၏၊ မိမိကိုလည်း ဝိနည်းလေးစားစေလိုတော်မူကြ၏၊ ထို့ကြောင့် စွမ်းနိုင်သမျှ လေးစားခဲ့သည်၊ ထိုအမွေကို အဆင့်ဆင့်ပေးဖို့ရန်မှာလည်း ဝိနည်းပါဠိတော် အဋ္ဌကထာတို့ကို ကျွမ်းကျင်အောင် သင်ပေးရမည်သာ ဖြစ်၏၊ ထို့ကြောင့် သာသနာတော်၏ အသက်ဖြစ်သော ဝိနည်းတို့ကို တတ်သိဖို့ရာ ဝိနည်းအဋ္ဌကထာများကို ဘာသာဋီကာ ဖွင့်ဆိုပေးပါသည်"ဟု ဝန်ခံထားလေသည်။

## အခက်ခဲဆုံးအဋ္ဌကထာကြီး

ဝိနည်းအဋ္ဌကထာကြီးများကို ကုန်စင်အောင် အပြီးသတ် ဖွင့်ဆိုပြီးသောအခါ သင်ရိုးအမာခံဖြစ်သော (သုတ္တန်ဘက်ဆိုင်ရာ) သီလက္ခန်အဋ္ဌကထာကျမ်းကြီးကို ဖွင့်ဆိုရန် ကျန်သေး၏၊ ဤသို့အားဖြင့် ဤအဋ္ဌကထာကြီးကို ချန်ထားသည်မှာ အကြောင်းရှိ၏၊ ဤအဋ္ဌကထာကြီးသည် ခက်ခဲ၏၊ နက်နဲ၏၊ တိတ္ထိတို့၏ဘာသာ အယူဝါဒတို့ဆိုလျှင် သဗ္ဗညုတဉာဏ်တော်ကြီး၏ အာရုံတို့သာ ဖြစ်နိုင်ကုန်၏၊ "ရှုပ်ထွေးသည်"ဟု ဆရာတော်ကိုယ်တိုင် ဝန်ခံထားသည်၊ ထို့ကြောင့် ဖြည်းဖြည်းအေးအေး ရေးသားဖွင့်ဆိုရန် ချန်ထားခြင်း ဖြစ်ဟန်တူသည်။

ဤကျမ်း၏ နိဒါန်း၌ ဆရာတော်က ဤသို့ ဖွင့်ဟထားသည်။

"ဤသီလက္ခန်အဋ္ဌကထာကို ၁၅ နှစ်သား ပြည့်ခါစ ကျောင်းသားအရွယ်ကပင် စတင်၍ ဆိုဝါဖြင့် သင်ယူခဲ့ရ၏၊ ထို့နောက် ပခုက္ကူသို့ ရောက်သောအခါ ထပ်မံ၍ လေ့လာရ၏၊ သက္ကျသီဟစာမေးပွဲ မဝင်ခင်လည်းကောင်း, ဝင်ပြီးမှလည်းကောင်း ကိုယ်တိုင်ပင် ပို့ချခဲ့၏၊ ထို့နောက်တွင်လည်း အခေါက်ခေါက် အကြိမ်ကြိမ် ပို့ချဖူးသည်။

ထိုမျှလောက် အထပ်ထပ်လေ့လာပြီးဖြစ်ပါသော်လည်း ဤကဲ့သို့ ဘာသာဋီကာအဖြစ် ရေးသားဖွင့်ဆိုသောအခါ လွယ်မယောင်နှင့် ခက်နေသော အချက်တွေ တော်တော်များများကို တွေ့နေရပြန်သည်၊ တိတ္ထိတို့ဆိုင်ရာ ဘာသာဝါဒများကြောင့် ရှေ့ပိုင်းသုတ်များဆိုလျှင် တစ်မျိုးပြီးတစ်မျိုး ရှုပ်ထွေးနေကြ၏၊ လွယ်လွယ်ကူကူဖြင့် ပြီးစေရသောသုတ်တော်ဟူ၍ တစ်သုတ်မျှ မပါခဲ့၊ ခက်ပြီးရင်းခက်ရင်း ဖြစ်သောကြောင့် "အခက်ဆုံးအဋ္ဌကထာ"ဟုပင် ဆိုထိုက်ပါပေသည်"ဟု မိန့်ဟထားသည်။

## ရတနာအဖူးများ ဆွတ်ခူးစေချင်လို့

ဤသို့ အခက်ဆုံးဖြစ်သောအဋ္ဌကထာကို အခြားသော စာဝါများကို ချပို့ရေးသားရင်း ကြိုးစားဖွင့်ဆိုလာခဲ့ရာ သုံးနှစ်ခန့်အကြာ ၁၃၃၁ ခု ဝါဆိုလတွင် အောင်မြင်ပြီးဆုံးခြင်းသို့ ရောက်ရှိခဲ့လေသည်၊ ထိုမျှလောက် ကြိုးစားခြင်း၏ ရည်ရွယ်ရင်းမှာ နောင်လာနောက်သားတို့ လွယ်ကူစွာ သိရစ်ကြဖို့နှင့် မိမိအတွက် ပညာပါရမီအဆီအနှစ် အမြုတေဖြစ်ဖို့ဟု မိန့်ဆိုထားပါသည်။

ထို့ပြင် ပိဋကတ်ပါဠိတော်ကြီးများသည် ကျယ်ဝန်း နက်ရှိုင်းလှသဖြင့် မဟာသမုဒ္ဒရာပင်လယ်ကြီးများနှင့် တူလှ၏၊ မဟာသမုဒ္ဒရာကြီးများ၌ ပုလဲစသော အဖိုးတန်ရတနာများ ရှိသလို ဤပိဋကတ်

ပါဠိတော် အဋ္ဌကထာကြီးများ၌လည်း သီလ သမာဓိ ပညာ စသော ရတနာများ, မဂ် ဖိုလ် နိဗ္ဗာန်ဟူသော ရတနာကြီးများ ရှိကြသည်။

ထိုရတနာများကို တွေ့မြင်ရသူ သုံးစွဲနိုင်ဖို့ရာ ထို ရတနာများရှိရာ ဤပိဋကတ်ပါဠိတော် အဋ္ဌကထာကြီးများကို စနစ်တကျတတ်မြောက်အောင် ထုတ်ဆောင်ဖွင့်ပြရခြင်း ဖြစ်ပါသည်ဟုလည်း ဆိုထားပြန်ပါသေးသည်။

ယခုအခါ ဘာသာဋီကာဖြင့် ဖွင့်ဆိုရန် ဆန္ဒ ပြင်းပြခဲ့သည်ဆိုသော အမာခံသင်ရိုး အဋ္ဌကထာကြီး သုံးကျမ်းကား ဆုံးခန်းတိုင်ရောက် ပြီးမြောက်ခဲ့ပြီ ဖြစ်၍ ဆရာတော်မှာ ကျေနပ်မှုများစွာ ဖြစ်နေရလေသည်၊ အခြားသော ကျမ်းစာ, အခြားသော အဋ္ဌကထာတို့ကို ချပို့ရင်း ဖွင့်ဆိုရေးသားရာ၌ အချို့ကျမ်းကို ၁၀ လ, အချို့ ၁၂ လ, ၁၅ လ, လပေါင်း ၂၀ ခန့်မျှဖြင့် ပြီးစီးစေနိုင်ခဲ့၏။

ဤသင်ရိုးအဋ္ဌကထာကြီးသုံးကျမ်းကား ကျယ်လည်း ကျယ်, နက်လည်း နက်, ခက်လည်း ခက်သဖြင့် တစ်ကျမ်း တစ်ကျမ်းလျှင် လေးနှစ်စီ, သုံးနှစ်စီရှိမှ ပြီးစီးရသည်ကို တွေ့ရသည်။

ဤသို့လျှင် အရှင်ဇနကာဘိဝံသ ဆရာတော်မှာ သာသနာတော်အတွက်ဆောင်ရွက်ဖို့တာဝန်ရှိသည်ဟု သိသည်အားလျော်စွာ တာဝန်ကျေပွန်အောင် ဤသို့အားဖြင့် ဆောင်ရွက်တော်မူခဲ့ပါလေသည်။

# အနာဂတ်သာသနာ၏ကံကြမ္မာ သံဃာလက်၌ရှိ

## တန်ဖိုးကြီးမား သားကြီးသြရသ

“အနာဂတ်သာသနာ၌ သံဃာသည် အရေးကြီး၏၊ ငါဘုရားမရှိပြီးနောက် ဓမ္မရတနာ ဆက်လက်တည်တံ့ရေးမှာ သံဃာ့ရတနာသာဖြစ်သည်၊ သံဃာ့လက်ထဲ၌သာ တည်၏” ဤသို့လျှင် ရှင်တော်ဗုဒ္ဓက အနာဂတံသ ဉာဏ်တော်ဖြင့် သိတော်မူထားပြီးဖြစ်၏၊ ထို့ကြောင့်ပင် တောထွက်လာသော အရှင်မဟာကဿပအလောင်း ပိပ္ပလိကို ရှင်တော်ဗုဒ္ဓကိုယ်တိုင် သုံးဂါဝုတ်ခရီးမျှထွက်၍ စောင့်ကြိုနေတော်မူခြင်း ဖြစ်သည်၊ “ငါဘုရားသည် သက်တော် ၈၀ မျှသာ နေတော်မူရမည်၊ ပိပ္ပလိကား အသက် ၁၂၀ နေရမည့်သူ ဖြစ်၍ ငါဘုရားမရှိပြီးနောက် သာသနာကို ဆက်လက်တည်မြဲအောင် ထိန်းသိမ်းမည့် သားတော်ကြီးတစ်ပါး ဖြစ်မည်”ဟု မြင်တော်မူထားပြီးဖြစ်၏၊ ထို့ကြောင့် စောင့်ကြိုနေတော်မူခြင်း ဖြစ်ပေသည်။

ထိုမျှမကသေး သာသနာ့ဝန်ဆောင် နောက်နောင် သံဃာတော်များအပေါ် နောင်လာ နောက်သား ဒါယကာ ဒါယိကာမများက အာရုံ ထား၍ လေးစားစေချင်၏၊ အကြောင်းမှာ အနာဂတ် သာသနာ တည်တံ့ရေးအတွက် သံဃာသာလျှင် အဓိက ကျနေသောကြောင့်တည်း၊ ထို့ကြောင့်ပင် တစ်ခါတုန်းက ကိုယ်တိုင်စီမံ ယက်လုပ်ထားသော သက်န်းကို သားဘုရားအား လှူဒါန်းလာသော မိထွေးတော် ဂေါတမီအား မြတ်စွာဘုရားက... “သံဃာကို လှူပါ”ဟု ညွှန်ပြတော်မူနေခြင်းဖြစ်ပေသည်။ (ဥပရိပဏ္ဏာသ, ၄-နှာ ၂၂၁။)

## တာဝန်ကျေသော သားကြီးများ

မှန်လည်း မှန်ပေ၏၊ ...ဘုရားကိုယ်တော်မြတ် ပရိနိဗ္ဗာန်စံပြီးနောက် သာသနာတော်ကြီး မပျောက်အောင် အဓိကအပိုင်းက စောင့်ရှောက်လာခဲ့ကြသည်မှာ သံဃာတော်များသာတည်း၊ ပရိနိဗ္ဗာန်စံပြီး၍ ပဌမသံဂါယနာ အပြီးတွင် အရှင်မဟာကဿပ မထေရ်ကြီး၏ ခွဲဝေစီစဉ်ပေးမှုအရ အရှင်ဥပါလိ၏ တပည့်အဆက်ဆက်တို့က ဝိနည်းပိဋကတ်မပျောက်အောင် ဆောင်ရွက်လာခဲ့ကြပုံ, အရှင်အာနန္ဒာနှင့် တကွ တပည့်အဆက်ဆက်တို့က သုတ္တန်ပိဋကတ်ကို ဆောင်ရွက်လာခဲ့ကြပုံ, အရှင် သာရိပုတ္တရာ၏

အစဉ်အဆက် တပည့်တို့က အဘိဓမ္မာပိဋကတ်ကို ဆောင်ရွက်လာခဲ့ကြပုံတို့ကို အာရုံပြုမိသောအခါ ကြက်သီးဖျန်းဖျန်းထလောက်အောင် ကြည်ညိုရပါသည်၊ တာဝန်ကျေသော သားတော်ကြီးများပါပေ။

ပရိယတ္တိသာသနာ, ပဋိပတ္တိသာသနာ, ပဋိဝေဓသာသနာ ဟူ၍ ဘုရားရှင်၏ သာသနာသုံးရပ်ရှိသည်တွင် ပရိယတ္တိဟူသည် ပဋိဝေဓရတနာများ ထည့်သွင်းသိုလှောင်ထားရာ သေတ္တာကြီးနှင့်တူ၏၊ ပဋိပတ္တိကား ထိုသေတ္တာကြီးကို ဖွင့်ဖို့ရာ သော့ကြီးနှင့်တူ၏၊ နောက်ဆုံးတွင် ထိုရတနာများကို ရယူသုံးစွဲနေနိုင်ဖို့အရေးမှာ သိုလှောင်ထားသောသေတ္တာကြီးနှင့် ဖွင့်လှစ်ရသောသော့ကြီးများ ပျောက်ပျက်မသွားဖို့ စောင့်ရှောက်ရန် အရေးကြီးဆုံး ဖြစ်တော့သည်။

ထိုစောင့်ရှောက်မည့် ပုဂ္ဂိုလ်တို့ကား သံဃာတော်များသာတည်း၊ ထို့ကြောင့် "အနာဂတ်သာသနာ၏ ကံကြမ္မာသည် သံဃာ့လက်၌ ရှိ၏"ဟု ဆိုခဲ့ခြင်း ဖြစ်ပေသည်။

## အခက်အခဲကို ကျော်လွှားခဲ့

သင်္ဂါယနာသုံးတန် တင်၍အပြီး သီဟိုဠ်သို့ ရောက်သော သာသနာ၌ တစ်ချိန်တွင် ဗြာဟ္မဏတိဿ သူပုန်ဘေးကြီးနှင့် ကြုံခဲ့ကြရ၏၊ ၁၂ နှစ်တိုင်တိုင်ပင် ကြာလေသည်၊ တိုင်းသားပြည်သူ ရှင်လူအများ ပြေးလွှားနေခဲ့ကြရ၏၊ မြို့ရွာအိမ်ခြေများသို့ မကပ်နိုင်ကြချေ၊ တောကြိုအုံကြားတွင် နေကြရသည်က များသတတ်၊ လယ်ယာချောင်းမြောင်းတို့ကို လုပ်ကိုင်ဆောင်ရွက်ခြင်း မပြုနိုင်ကြသဖြင့် စပါးဆန်ရေ ခေါင်းပါးကြရ၏၊ သစ်ဥသစ်ဖုတို့ဖြင့်သာ တင်းတိမ်ကျေနပ်ကြရသည်၊ ရဟန်းသံဃာတို့သည်လည်း လူတို့ လှူသမျှ သစ်ဥသစ်ဖုတို့ဖြင့်သာ မျှတကြရတော့၏၊ ရဟန်းသံဃာများသည် အာဂုံနှုတ်တတ် ဆောင်ရွက်ထားသော ပိဋကတ်တော်များ ပျောက်ပျက်ကုန်မည်စိုး၍ အမြဲမပြတ် ရွတ်အံနေကြရ၏၊ အစာအာဟာရ လုံလောက်အောင် မရ၍ ရင်ပူလာသောအခါ ရင်ဘတ်ပေါ်တွင် သဲအစိုများတင်၍ ရွတ်ကြရသတတ်၊ ဤမျှလောက်ပင် ရတနာသေတ္တာကြီးများ ပျောက်ပျက်မသွားအောင် စောင့်ရှောက်တော်မူခဲ့ကြသည်၊ အခက်အခဲများကို ကျော်လွှားခဲ့ကြရ၏၊ တာဝန်ကျေသော သားတော်ကြီးများပါပေ၊ ဤသို့လျှင် ကွယ်ပျောက်လုနီးပါး ကြုံခဲ့ရသော သာသနာတော်ကြီးကို ဝိုင်းဝန်းကူပံ့၍ မြှောက်ပင့်လိုက်သောအခါ သာသနာတော်ကြီးမှာ ပြန်၍ တက်လာရလေသည်။

## သာသနာလာခဲ့ရသောခရီး

မြန်မာပြည် သာသနာသမိုင်းတွင်လည်း ပုဂံခေတ်၌ အရည်းကြီးတို့ ဆိုးသွမ်းသောင်းကျန်းမှုကြောင့် ပျောက်ကွယ်လုနီးပါးမျှ ရှိနေစဉ်ပင် အရှင်အရဟံ ဦးဆောင်သော သံဃာတော်များက အနော်ရထာမင်း၏အကူအညီဖြင့် ပြုပြင်ခဲ့ကြရာ သာသနာသည် ပြန်လည်၍ အစစ်အမှန်အတိုင်း ဆန်းသစ်လာခဲ့ပြန်သည်၊ ထိုအချိန်မှ စ၍ တိုးတက်ကောင်းမွန်လာခဲ့ရာ အင်းဝခေတ် သိုဟန်ဘွားလက်ထက်တွင် မှိန်ခဲ့ရပြန်၏၊ ထိုအချိန်မှိန်ခဲ့ရပုံကား အကျင့်ဆိုးသွမ်း၍ မဟုတ်ချေ၊ ဘာသာတစ်ပါးအယူခြားသောမင်း၏ နှိပ်စက် ဖျက်ဆီးမှုကြောင့် ဖြစ်သည်။

အင်းဝခေတ်တွင် ပေါ်ပေါက်နေသော ပညာတတ် ရဟန်းတော်များ ၃၀၀ ခန့်ကို သိုဟန်ဘွားမင်းက သတ်ဖြတ်၍ ပိဋကတ်စာပေတို့ကို မီးရှို့ဖျက်ဆီးလိုက်သောကြောင့်ဖြစ်၏၊ ကုန်လုနီးပါးမျှ ဖြစ်သွားသော အခြေအနေမှ ဝိုင်းဝန်းကြိုးစားကြသဖြင့် နောက်ထပ်တစ်ဖန် ပြန်၍ တက်လာရပြန်သည်။

"ယခုလည်း သာသနာတော်ကြီး အောက်တန်းသက်၍ နိမ့်ကျလာနေပြီ"ဟု ပြောနေကြ၏၊ ညည်းနေကြ၏။

ဤသည့်အချက်တို့မှာ ကြိုးစားလျှင် ကြိုးစားသလို တက်လာတတ်သော သဘာဝတို့ကို အတိတ်သမိုင်းတို့က သာဓကပြနေခြင်းပင်ဖြစ်၏။

## ငှက်ခါးပျံသလို နိမ့်တုံ မြင့်တုံ

"ညည်းမနေကြနှင့်၊ သာသနာတော်ကြီး ပြန်၍တက်လာစေလိုလျှင် တက်ညီလက်ညီနှင့် ဝိုင်းဝန်းကြိုးစားပါ၊ ယခု ကြိုးစားလျှင် ယခု ပြန်၍ တက်လာနိုင်ပါသေးသည်။

သာသနာတော်ကြီးမကွယ်သေးပါ၊ လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်း ပါရမီဖြည့်ပြီးမှ ရတဲ့ သဗ္ဗညုတဉာဏ်တော်ကြီးဖြင့် တည်ထောင်ထားတဲ့သာသနာဟာ ယခု နှစ်ပေါင်း ၂၅၀၀ ကျော်ရုံကလေးနှင့် မကွယ်ထိုက်သေးပါဘူး။

သာသနာဆိုတာ ငှက်ခါး ပျံသလို နိမ့်ချည်မြင့်ချည် လာခဲ့ရတာပါ၊ စောင့်ရှောက်သူ ပြုပြင်သူရှိတဲ့အခါ တိုးတက်မြင့်မား၍ အထက်တန်းရောက်လာပြီး စောင့်ရှောက်ပြုပြင်သူ ကင်းမဲ့တဲ့အခါအောက်တန်းသက်ပြီး မျက်နှာငယ်ငယ်နှင့် လာခဲ့ကြရတာပဲ၊ ဒါ ဓမ္မတာ။

ဒါ့ကြောင့် သာသနာနှင့် ပတ်သက်လာလျှင် လက်မလျှော့ကြပါနှင့်၊ ကြိုးစားလျှင် ဖြစ်နိုင်ပါသေးတယ်၊ ဗုဒ္ဓဘာသာမှန်သမျှ ရဟန်းရှင်လူ မည်သူမဆို ကြောင့်ကြမဲ့ မနေကြပါနှင့်၊ ကိုယ်စီကိုယ်င စောင့်ရှောက်ကြပါ၊ ပြုပြင်ကြပါလို့ တိုက်တွန်းပါတယ်"။

ဤသည်တို့ကား ဆရာတော် အရှင် ဇနကာဘိဝံသ ပြောနေကျစကားလုံးတို့ ဖြစ်သည်၊ ဆရာတော်တင်ပြသော အချက်အလက်တို့ကလည်း သဘာဝကျပါပေ၏၊ သင်္ဘောကြီးနစ်မြုပ်လာ၍ အော်ဟစ်အကူအညီ တောင်းခံရင်း သေရမည့်အစား ဇနကမင်းသားလို တစ်လံ ရောက်ရောက်၊ နှစ်လံ ရောက်ရောက် ကူးသည်က ကမ်းစပ်နှင့် နီးနိုင်သေးသည် မဟုတ်ပါလော။

## အသေးအဖွဲကလေးများကို လေးစားတတ်လာအောင် လက်တွေ့ကျင့်သုံးတတ်ဖို့လေ့ကျင့်ပေး

တစ်နေ့သော ညချမ်းဆည်းဆာ ၆ နာရီခန့်အခါတွင် ဖြစ်၏၊ ညတရားဟောရန် ဂျစ်ကားကလေးတစ်စီးဖြင့် လာ၍ ပင့်သည်၊ တပည့်တစ်စုလည်း ပစ္ဆာသမဏ (နောက်ပါရဟန်းများ)အဖြစ် လိုက်ပါကြဖို့ရန် ဂျစ်ကားပေါ်သို့ အရောက်တွင် "ဝိကာလေ ဂါမပ္ပဝေသနံ အာပုစ္ဆာမိ"ဟု ဆရာတော်က စ၍ပန်ပြောလေသည်၊ ထိုအခါ သတိရလာကြပြီးလျှင် အားလုံးတစ်ပါးသည် တစ်ပါးအား အချင်းချင်း "ဝိကာလေ ဂါမပ္ပဝေသနံ အာပုစ္ဆာမိ"ဟု ဆို၍ ပန်ပြောကြတော့သည်။

ဝိနည်းသိက္ခာပုဒ်များ၌ "ဝိကာလေ ဂါမပ္ပဝေသန" သိက္ခာပုဒ်တော်တစ်ခု ရှိပါသည်၊ ယင်း၏ အဓိပ္ပာယ်မှာ "ရဟန်းတစ်ပါးသည် အဆောတလျင် အရေးတကြီး ရုတ်တရက်ပြုရသော မီးဘေး၊ ရေဘေး၊ ခိုးသူဓားပြဘေး၊ ရန်သူဘေး စသောကိစ္စတို့မှ တစ်ပါး အခြားအချိန်အခါများတွင် ထင်ရှားရှိသော ရဟန်းကို မပန်ကြားဘဲ (ခွင့်မတိုင်ဘဲ) နေလွဲအခါ ရွာတွင်း မြို့တွင်းသို့ ဝင်လျှင် ပါစိတ်အာပတ်သင့်၏" ဟူ၍ ဖြစ်သည်။ (အန္တရာယ်တစ်ခုခုရှိလျှင်ကား မပန်ကြားဘဲ ဝင်ကောင်း၏။) ထိုသိက္ခာပုဒ်တော်ကို လေးစားသောအားဖြင့် ဆရာတော်က ထင်ရှားရှိသော ရဟန်းတို့အား သွားခါနီး ပန်ကြားနေခြင်းဖြစ်သည်၊ တစ်နည်းအားဖြင့် မိမိတပည့်ငယ်များအား ဝိနည်း အလေ့အကျင့်ရအောင်၊ ဝိနည်းကို လေးစားတတ်အောင်၊ လက်တွေ့ ကျင့်သုံးတတ်အောင် လက်ထပ် သင်ပေးနေခြင်းလည်း ဖြစ်သည်။

ဤနည်းဖြင့် ဆရာတော်က သူကိုယ်တိုင်လည်း အာပတ်လွတ်, တပည့်တို့အားလည်း သင်ကြားပြီး ဖြစ်အောင် ကျင့်သုံးတော်မူသည်၊ တစ်ချက်ခုတ် နှစ်ချက်ပြတ် ဆိုသလို ဖြစ်တော့သည်၊

ဤသို့ အရာရာတိုင်းတွင် တပည့်သားငယ်တို့အား မမောနိုင် မပန်းနိုင် သင်ကြားပေးနေသဖြင့် တစ်ခါတလေတွင်လည်း မိမိတို့ ဆရာတော်ကို "အဖေကြီး"လို မြင်သည်၊ တစ်ခါတလေတွင်လည်း ကြင်နာယုယမှုတွေများသဖြင့် "အမေကြီးလို" မြင်မိကြပြန်သည်။

## ဒိဋ္ဌာနုဂတိအရေးကြီး

နံနက်ပိုင်း၌ကား ဆွမ်းခံ ဝင်လိုခြင်း စသော အကြောင်းဖြင့် တစ်ပါးသောရဟန်းအား မပန်ကြားဘဲ (ခွင့်မတိုင်ဘဲ) မြို့တွင်းရွာတွင်းသို့ ဝင်ကောင်း၏၊ မွန်းတည့်ပြီးနောက် နေလွဲသောအခါ၌သာ (အရေးတကြီး အကြောင်းမပါလျှင်) ထိုသိက္ခာပုဒ်တော်အရ ပန်ကြားရမည် ဖြစ်သည်၊ ပန်ကြားပုံမှာ ဆိုခဲ့ပြီးအတိုင်း ပါဠိလိုဖြစ်စေ, "နေလွဲအခါ ရွာတွင်းဝင်ခြင်းကို ပန်ပြောပါ၏"ဟု မြန်မာလိုပြန်၍ဖြစ်စေ (သို့မဟုတ်) "ရွာတွင်းဝင်မလို့ပါ" "ရွာတွင်းသွားပါရစေ" ဟု အရပ်သုံးစကား သဘောသွားအားဖြင့် ဖြစ်စေ ပန်ကြား တိုင်ကြား လျှောက်ထား၍ သွားရမည်၊ ရဟန်းနှစ်ပါး မြို့တွင်းရွာတွင်းသို့ အတူဝင်လိုရာ၌ အချင်းချင်း အပြန်အလှန် ပန်ပြောနိုင်၏၊ ရဟန်းအများ ဝင်ရာ၌ကား နီးရာ ရဟန်းအား ပန်ပြောနိုင်သည်၊ ဤသို့လျှင် မိမိတို့၏ ကျေးဇူးရှင် ဆရာတော်က ကောင်းသောအလေ့အကျင့်ကလေးများကို ကိုယ်တိုင်ပြု၍ ဒိဋ္ဌာနုဂတိရအောင် လက်ထပ် သင်ပေးတော်မူခဲ့၏၊ ထို့ကြောင့်ပင် ယခုအခါ တပည့်ကြီးများမှာ စာချဘုန်းကြီးများ, နာယကဘုန်းကြီးများ ဖြစ်နေသည့်အခါတိုင်း မမေ့နိုင်ဘဲ, ထိုအကျင့်ကလေးများစွဲ၍ "ဝိကာလေ ဂါမပ္ပဝေသနံ အာပုစ္ဆာမိ"ဟူသော ပန်ပြောမှုကလေးများ မြဲနေကြရခြင်း ဖြစ်ပါသည်၊ ကျေးဇူးကြီးမားလှပေစွ။

ယခုတစ်ဖန် စာချဘုန်းကြီး နာယကဘုန်းကြီးများက တစ်ဖန်ပြန်၍ နှောင်းတပည့်ငယ်များအား အလေ့အကျင့်ရအောင် သင်ကြားနေရပြန်ချေပြီ၊ ကောင်းသော အလေ့, ကောင်းသော အကျင့်, ကောင်းသောအမွေအနှစ်ကလေးများ မပျက်ပြားရန်ဖြစ်၏၊ ကောင်းသောဒိဋ္ဌာနုဂတိဟူသမျှ ဆက်လက်တည်တံ့ပါစေသော်။

## ကပ္ပိယဝေါဟာရ(အပ်စပ်သောအသုံးအနှုန်း) ရဟန်းများအသုံးအနှုန်း

ရဟန်းများမှာ လူတို့ကဲ့သို့ မဟုတ်ချေ၊ ဝိနည်းသိက္ခာပုဒ်များအရ ကိုယ်မှု နှုတ်မှုတို့ကို စောင့်စည်းရာတွင် အပြောအဆို ဝေါဟာရတချို့ကိုပါ ပြုပြင်ပြောင်းလဲ ပြောဆိုရသော ကိစ္စများလည်း ပါဝင်သည်၊ ဥပမာ-မှိုမောက်နေသော မြေကြီးကို တူးဖြို၍ နိမ့်သော အရပ်တွင် ဖို့သိပ် လိုရာ၌ သာမဏေ ကျောင်းသား လူပုဂ္ဂိုလ် စသူတို့အား "ဤမြေကြီးကို သိစမ်း" (သို့မဟုတ်) "ဤမြေကြီးကို ကပ္ပိစမ်းပါ"ဟု အပ်စပ်သော အသုံးအနှုန်းဖြင့်သာ ပြောရ ခိုင်းရ၏၊ "ဤမြေကြီးကို တူးစမ်း"ဟု လူတို့ အသုံးအနှုန်းဖြင့် မခိုင်းကောင်း, ခိုင်းလျှင် ပထဝီခဏနသိက္ခာပုဒ်၌ "ခဏာပေယျ"အရ အာပတ်သင့်သည်၊ (တူးခြင်း, ဆွခြင်း, ဖြိုခွဲခြင်း, ပေါက်ခွဲခြင်း, မြေကြီးကို တုတ်ဖြင့်ခြစ်ခြင်း, မီးတိုက်ခြင်း စသော ဖျက်ဆီးမှုဟူသမျှ အတူတူဖြစ်၏၊ ကိုယ်တိုင်ပြုလျှင်ဖြစ်စေ, သူတစ်ပါးကို ခိုင်းလျှင်ဖြစ်စေ အာပတ်သင့်သည်၊)

ထို့ကြောင့် ဆရာတော်က ကျောင်းတိုက်အတွင်း သန့်ရှင်းရေးအလုပ် လုပ်ရာသို့ ကြွကြွလာ၍ မကြာမကြာ သတိပေးတတ်သည်၊ မဟာဂန္ဓာရုံကျောင်းတိုက် မြေအပြင်သည် ယခု တွေ့မြင်နေရသကဲ့သို့

"ဒီမြေကြီး မောက်နေတယ်၊ ကပ္ပိစမ်း၊ ဒါမှ မဟုတ် ဒီမြေကြီးကို သိစမ်း၊ ဒီနေရာမှာ တွင်းတစ်ခု ကပ္ပိစမ်း၊ သို့မဟုတ် ဒီနေရာမှာ တွင်းတစ်ခု သိစမ်း၊ ဒီနေရာမှာ မြောင်းတစ်ခု ကပ္ပိပေးပါ၊ ဒီနေရာမှာ မြေကြီးချိုင့်ဝှမ်း ဖြစ်နေတယ်၊ ဟိုက မြေကြီးတွေကို အလိုရှိတယ်...အစရှိတဲ့ အသုံးအနှုန်းတွေသာ အပ်စပ်တဲ့ ဝေါဟာရတွေပဲ၊ ခိုင်းတဲ့အခါ သတိထားပါနော်"။

ဤသို့ အစရှိသည်ဖြင့် ဆရာတော်က စိတ်မချနိုင်သလို လာ၍ လာ၍ သတိပေးတတ်၊ မှာကြားတတ်သည်၊ တစ်ခါတလေ နံနက်စောစော ဩဝါဒပေးရင်း အမိန့်ရှိတတ်သည်၊ နံနက်စောစော ဩဝါဒ အချိန်ကား ရှင် လူ ရဟန်း ဖိုးသူတော် အားလုံး စုံလင်၍ ညီမှုရာကာလ သမယကြီးပေတည်း၊ မှာကြားစရာ ဆုံးမစရာ အပြစ်တင်စရာ ဟူသမျှ ဤအစည်းအဝေးကြီးတွင် ဖော်ပြတတ်၏။

မူလကတည်းကပင် ညီညွတ်ချောမွေ့ ပြေပြစ်လာခဲ့သည် မဟုတ်ချေ၊ ကုန်းကမူ ချိုင့်ဝှမ်း တောတန်း ချုံနွယ်တို့ဖြင့် ပိတ်သည်းလျက် တည်ရှိလာခဲ့သည်၊ ယင်းကို နေ့စဉ်နေ့တိုင်း ရဟန်း သာမဏေများက ကိုယ်စီကိုယ်င တရွေ့ရွေ့ ပြုပြင်လာခဲ့ကြရသည်၊ ထိုအခါ ဆရာတော်က ကြွကြွလာ၍ သတိပေးတတ် အမိန့်ရှိတတ်သည်။

"ဦးက္ကန္ဒာစရိယ...ကိုရင်တွေကို ခိုင်းတဲ့အခါ အပ်စပ်တဲ့ ဝေါဟာရနှင့်ခိုင်းမိပစေနော်၊ ဥပမာ မြေကြီးဆိုပါတော့... ဒီမြေကြီးကို ပေါက်ပြားနှင့် ပေါက်စမ်း၊ ဒီတွင်းကို တူးစမ်း၊ ဒီမြေစိုင်ခဲကို ထုခွဲစမ်း၊ ဒီကုန်းကမူကို ဖြိုစမ်း၊ ဒီမြောင်းကို ဖောက်စမ်း၊ ဒီမြေကြီးကို မီးတိုက်စမ်း၊ ရှို့စမ်း အစရှိတဲ့ အသုံးအနှုန်းတွေဟာ မအပ်စပ်တဲ့ အသုံးအနှုန်းတွေပဲ၊ ဒီလို ဝေါဟာရမျိုးတွေကို မသုံးမိစေနှင့်၊ ကြားလား"

## ဒါယကာကြီးကျော်ဝေါဟာရ

ဤသို့ ခဏ ခဏ မိန့်ပါများ၍ ကြားရဖန်များလာသောအခါ ကပ္ပိယကာရက ဒါယကာကြီး ဦးကျော်ဝင်းပါ ဤဝေါဟာရကလေးများကို သိနေတော့သည်၊ သူလည်း ဤဝေါဟာရကလေးများကို မှတ်သား၍ ကြိုးစားကာ သုံးနှုန်းရှာပါ၏၊ ရဟန်းတော်များမှာ အသုံးအနှုန်းတွေ မှား၍ မအပ်မရာတွေ ဖြစ်ကုန်မှာစိုးဟန်တူသည်၊ တစ်ခါသော် အများသွားလာနေကျ လမ်းမ၏ ဘေးတွင် သစ်ငုတ်တိုအခြောက် တစ်ပေလောက် မြေပေါ်မှာ ငိုးတိုးငေါက်တောက် ပေါ်နေ၏၊ ကိစ္စတစ်ခုဖြင့် ထိုအနားသို့ ဆရာတော်လည်း ရောက်လာသည်၊ ထိုအခါ... ဒါယကာကြီး ဦးကျော်ဝင်းက "ဆရာတော်ဘုရား၊ ဒီသစ်ငုတ်တိုအခြောက်ကို မီးသင်္ဂြိုဟ်လိုက်ချင်ပါတယ်ဘုရား"ဟု လျှောက်ထားရာ ဆရာတော်က ပြုံးနေသည်၊ ဒါယကာကြီး၏ စေတနာကို ဆရာတော်က သိပြီးဖြစ်၏၊ အမှန်မှာ "ဒီသစ်ငုတ်တိုအခြောက်ကို မီးနှင့် ကပ္ပိလိုက်ချင်တယ်ဘုရား"ဟု လျှောက်ထားရမှာ ဖြစ်သည်၊ သို့သော် ဒါယကာကြီး အထင်က မီးနှင့်ပတ်သက်လာသောကြောင့် ရဟန်းတို့ ဝေါဟာရအရ "သင်္ဂြိုဟ်" ဟု သုံးနှုန်းရမည် အောက်မေ့သဖြင့် လျှောက်ထားမိခြင်း ဖြစ်သည်၊ ဆရာတော်ကမူ ပြုံးပြုံးကြီး လုပ်နေသည်။

## သည်လို ပြောရ ဆိုရတယ်

သစ်ပင်များကို ခုတ်လှဲရာ အကိုင်းများကိုချိုင်ရာ ခုတ်ဖြတ်ရာတို့၌လည်း မြေကြီးမှာကဲ့သို့ သုံးနှုန်းမိအောင် ဆရာတော်က သတိပေးတော်မူသည်၊ ရှေးအစဉ်အလာ အဆက်ဆက်က ဝိနည်းကို လေးစားခဲ့ကြသော ဆရာတော်ကြီးများ၏မူကို မပျက်ရအောင် အဆက်ဆက် တပည့်များ သတိထားဖို့ရာ ဆရာတော်က အမိန့်ရှိနေသည်။

ဒီသစ်ပင်ကို သိစမ်း၊ ကပ္ပိစမ်း၊ ငရုတ်သီးကို

25A

“ဒီသစ်ပင်ကို ခုတ်စမ်း, လှဲစမ်း, ဖြတ်စမ်း, ချိုင်စမ်း၊ ဒီအသီးကို ခူးစမ်း, ဆွတ်စမ်း၊ ဒီငရုတ်သီးကို ထောင်းစမ်း, ချက်စမ်း၊ ဒီကြက်သွန်ကို ခွဲစိတ်ပေးစမ်း၊ ဒီကြံရိုးကို ဖြတ်စမ်း စတဲ့ အသုံးအနှုန်းတွေကတော့ မအပ်ဘူးကွဲ့၊ အာပတ်သင့်တယ်၊ မသုံးမိအောင် ရှောင်ကြရမယ်နော်”စသည်ဖြင့် တဖွဖွ သတိပေးတော်မူတတ်သည်။

ခူးစေလိုတဲ့အခါ ဒီငရုတ်သီးကို ကပ္ပိပေးစမ်း, ဒီသြဇာသီးရင့်နေပြီ, ကပ္ပိပေးစမ်း”ဆိုတဲ့ အသုံးအနှုန်းမျိုး, ပန်းပင်များကို ရေလောင်းစေလိုတဲ့အခါမှာလည်း “ဒီပန်းပင်တွေ ညှိုးနေပြီ, ရေသိစမ်း” ရေနွေးတည်ဖို့, သက်န်းဆိုးရည်ကြိုဖို့ မီးမွေးလိုတဲ့အခါမှာလည်း “မီးသိပေးစမ်းပါ”ဆိုတဲ့ အသုံးအနှုန်းမျိုးတွေကို သုံးရတယ်၊ ဒါက အပ်တဲ့ ဝေါဟာရတွေပဲ။

## ဝိနည်းလေးစားမှုလျော့ပါးလာ

နေရာတကာတွင် ဝိနည်းလေးစားမှု လျော့ပါးလာသည့်အတွက် ဆရာတော်က ဝိနည်းကို အလေးပေး, နဂိုမူလအတိုင်း ပြန်ဖြစ်အောင် အရေးပေးကြိုးစားနေခြင်း ဖြစ်သည်၊ ရှေးအစဉ်အလာ ဆရာတော်ကြီးများသည် ဆွမ်းပွဲတွင် ကပ္ပိရမည့်ပစ္စည်းပါလာပါက “ဟဲ့-တစ်ယောက်လာစမ်း, ကပ္ပိပါဦးဟဲ့”ဟု ဆို၍ ကပ္ပိခိုင်းတတ်သည်၊ ပြီးမှ ဘုဉ်းပေးတော်မူလေ့ရှိကြသည်ကို မြင်နေ တွေ့နေခဲ့ဖူးပါ၏၊ အလွန်ကြည်ညိုဖွယ် ကောင်းလှပါသည်၊ ယခုခေတ် ယခုအခါတွင်ကား ဝိနည်းလေးစားသူ နည်းပါးလာရုံမက တစ်ပါးတလေက ကပ္ပိခိုင်းလျှင်ပင် “တောကျသည်”ဟု ပြောကာ သရော်တတ်နေကြလေပြီ၊ ဝမ်းနည်းဖွယ် ကောင်းလေစွ။

စာသင်သားများလောက သူတို့ဘဝမှာလည်း “နောင်မှနောင်ခါ သင့်သလို နေကြမည်၊ ယခုတော့ ကြိုးသလိုပဲ”ဟု ပြောကာ ဖြစ်သလိုပင် နေထိုင်လာကြပြီ၊ အခြေအနေကလည်း ဤသို့ ပေးသလို ဖြစ်နေတော့၏၊ ဝိနည်းကျင့်ဝတ်များ ပျက်ပြားခြင်း၏ အကြောင်းရင်းများပေတကား။

တစ်ခါက မန္တလေးမြို့ကြီးတွင် ကိုရင်ငယ်တစ်ပါးက စာကလေးကို လေးခွဖြင့် ပစ်လိုက်ရာ ထွေးခနဲ အောက်ကျ၍ လောက်စာဒဏ်ချက်ဖြင့် သေသွားရှာ၏၊ ထိုအခါ ကျေးတောရွာမှ ရောက်လာခါစ ကိုရင်ငယ်က “ဟယ်-ကိုရင်တို့ မန္တလေးမို့သာပေါ့ဗျာ, ကျုပ်တို့ တောရွာမှာသာဆိုရင် အခုလောက်ဆို ကိုရင် လိင်ကျပြီ”ဟု ပြောသတဲ့။

ဤသို့လျှင် ဝိနည်းကို လေးစားတတ်သော အလေ့အထမှာ တောရွာများ၌ ရှိသေးကြောင်း, မြို့သို့ စာသင်တက်သွားကြသော ပုဂ္ဂိုလ်များမှာ ကိုယ်ကျင့်စာရိတ္တခန်း၌ ပရမ်းပတာ, အများအားဖြင့် ဖြစ်နေကြပြီဖြစ်ကြောင်းကို တောကိုရင်ကလေး၏ စကားအရိပ်အရောင်က ဖော်ပြနေပါတော့သည်၊ ဝိနည်းဆိုသည်မှာ လိုက်နာသူများ၏ သန္တာန်မှာသာ တည်ပါသည်။

## ရဟန်းများ သစ်ပင်မခုတ်ရ, မခုတ်ကောင်း ဘူတဂါမ်နှင့်ဗီဇဂါမ်များ

ရဟန်းများမှာ ဘူတဂါမသိက္ခာပုဒ်အရ “ဖြစ်ဆဲကြီးပွားဆဲ, ဖြစ်ပြီး ကြီးပွားပြီး မြက်ပင်အပေါင်း သစ်ပင်အပေါင်းကို မဖျက်ဆီးရ, ဖျက်ဆီးလျှင် ပါစိတ်အာပတ်သင့်၏”ဟူ၍ သိက္ခာပုဒ်ရှိသည်၊ ငယ်သေး၍ ကြီးပွားခြင်းကိစ္စ မကုန်သေးသော သစ်ပင်ကို “ကြီးပွားဆဲ”ဟု ခေါ်ရ၏၊ အစွမ်းကုန် ကြီးပွား၍ ထို့ထက် တိုးပွားဖွယ်ရာ မရှိတော့သော သစ်ပင်ကိုမူ “ကြီးပွားပြီး”ဟု ခေါ်ရသည်၊ ထိုနှစ်မျိုး လုံးကိုပင် ဘူတဂါမ “ဘူတဂါမ်”ဟု ခေါ်သည်၊ မဖျက်ဆီးရ, ဖျက်ဆီး ခုတ်ဖြတ်လျှင် ပါစိတ်အာပတ် သင့်၏။

ထို့ကြောင့် ထိုသစ်ပင်၌ရှိသော အကိုင်း အခက် အလက်ကို မခုတ်ရ, မချိုင်ရ, ပင်စည်ကိုပါ မဖြတ်ရ၊ အသီး အပွင့် အဖူး အညွန့် အရွက်ကိုပါ မဆူးရခြင်း ဖြစ်သည်။

ထိုသစ်ပင်မှ ခူးဆွတ်ပြီးသော, ထိုသစ်ပင်မှ ဖြစ်ပေါ်လာသော အသီး အဆစ် အမြစ် ကိုင်းတက် စသည့် နောက်ထပ် အပင်ပေါက်နိုင်သည့် မျိုးစေ့ဟူသမျှကို "ဗီဇဂါမ" ဗီဇဂါမ်ဟု ခေါ်သည်၊ ထိုဗီဇဂါမ်ကိုလည်း မဖျက်ဆီးရ, ဖျက်ဆီးလျှင် ဒုက္ကဋ်အာပတ်သင့်၏၊ ထို့ကြောင့် နောက်ထပ်ပြန်၍ အပင်ပေါက်နိုင်သော ဗီဇဂါမ်အသီးဟူသမျှကို မစားကောင်း, စားလျှင် ဖျက်ဆီးရာရောက်သည်၊ အဆစ် အမြစ် အကိုင်း အတက် စသည်ကိုလည်း တို့အတူ မဖျက်ဆီးရ၊ သွားဖြင့် ကိုက်ဖြတ် ဝါးချေ စားသောက်ခြင်းသည်လည်း ဖျက်ဆီးခြင်း တစ်မျိုး ဖြစ်၏။

**ဗီဇဂါမ်မျိုးစေ့များ**

၁။ အမြစ်မျိုးစေ့ (နနွင်းတက်, ချင်းတက်, အာလူး စသည်)၊
၂။ ပင်စည်မျိုးစေ့(နဘဲ,ပိတောက်,ကြက်ဆူစသည်)၊
၃။ အဆစ်မျိုးစေ့ (ကြံဆစ်, ဝါးဆစ် စသည်)၊
၄။ အညွန့်မျိုးစေ့ (ပူစီနံ, ရွက်ကျပင်ပေါက်စသည်)၊
၅။ အစေ့မျိုးစေ့ (ငရုပ်,ပဲ,ပြောင်း,ဂျုံ,စပါးစသည်)

အမျိုးအစား ငါးမျိုးရှိ၏၊ ဤငါးမျိုးသည် အပင်ပြန်၍ ပေါက်နိုင်သောကြောင့် "ဗီဇဂါမ်"ဟု ခေါ်သည်၊ မဖျက်ဆီးကောင်း၊ လူ သာမဏေတို့က ဘူတဂါမ်ပင်မကြီးမှ ခုတ်ဖြတ်၍ တသီးတခြားဖြစ်လာသော အကိုင်း အခက် အရွက် အညွန့် စသည်တို့တွင် ပြန်၍ မပေါက်သောအရာတို့လည်း ရှိသည်၊ ထိုတွင် ပြန်၍ အပင်မပေါက်သော အကိုင်း အခက် အလက် အရွက် အညွန့်တို့ဆိုလျှင် ပင်ဧဘူတဂါမ်ကြီးမှ တသီးတခြား ဖြစ်လာပြီ ဖြစ်သောကြောင့် ရဟန်းများ ဆက်လက်၍ ဖြတ်တောက် ခုတ်ပိုင်းနိုင်၏၊ အကြောင်းမှာ ဗီဇဂါမ် မဟုတ်သောကြောင့် ဖြစ်သည်။

ပြန်၍ ပေါက်မည့် အကိုင်း အခက် အရွက် အညွန့် အမြစ် ပင်စည်တို့ကိုကား (ဘူတဂါမ်သစ်ပင်ကြီးမှ တသီးတခြားဖြစ်နေသော်လည်း) ဗီဇဂါမ် ဖြစ်နေသေးသောကြောင့် ရဟန်းများ ဆက်လက်၍ ဖြတ်တောက်ခုတ်ပိုင်းခြင်း မပြုကောင်း၊ စားဖွယ် အသီး အနှံ အရွက် အညွန့် အမြစ် အဉ ဖြစ်သောကြောင့် သွားဖြင့်သော်မှ ကြိတ်ချေ ကိုက်ဖောက် စားမျိုခြင်း မပြုကောင်း၊ ပြုလျှင် ဖျက်ဆီးရာရောက်၍ အာပတ်သင့်၏၊ ထို့ကြောင့် ထိုပစ္စည်းကို စားသုံးလိုပါက အပြစ်မသင့်အောင် "ကပ္ပိခြင်း"ခေါ်သော ဝိနည်းကံတစ်မျိုးကို ခွင့်ပြုတော်မူထားသည်။

## ဘူတဂါမ် ဗီဇဂါမ် မဖျက်ရ

အထက်ပါ အကြောင်းအရာတို့ကို ပါတိမောက်ဘာသာဋီကာတွင် ဒေသနာတော်လာသည့်အတိုင်း ဆရာတော် အရှင်ဇနကာဘိဝံသက ပီပီသသ ဖော်ပြရေးသားထားခြင်း ဖြစ်ပေသည်၊ ရေးသားပြရုံသာမက ကိုယ်တော်တိုင်လည်း လိုက်နာ, တပည့်တို့အားလည်း လက်တွေ့ကျင့်သုံးလာအောင် သတိပေးတော်မူတတ်၏။

"ဘူတဂါမ်ကို ဖျက်ဆီးလျှင် ပါစိတ်, ဗီဇဂါမ်ကို ဖျက်ဆီးလျှင် ဒုက္ကဋ်လို့ ပညတ်ထားတယ်၊ မင်းတို့တစ်တွေက ဗီဇဂါမ်ကို ဖျက်လို့ ဒုက္ကဋ်လောက်ပဲ သင့်တာပါလို့များ ပေါ့ပေါ့ကလေး သဘောမထားလိုက်ကြပါနဲ့၊ ဒုက္ကဋ်အာပတ်ကလေးကလည်း စျာန်မဂ်ဖိုလ်ရဲ့ အန္တရာယ်ကို ဖြစ်စေနိုင်တာပဲ၊ စျာန်မဂ်ဖိုလ်ကို တားမြစ်နိုင်တာပဲ၊ "**အန္တရာယိကာ ဓမ္မာ ဝုတ္တာ ဘဂဝတာ**"တဲ့၊ စျာန်မဂ်ဖိုလ် တားရုံသာမက ဘဝကိုလည်း နစ်မွန်းစေတတ်တာပဲ။

## အာပတ်က ငယ်ပေမယ့်လည်း

ကဿပဘုရားရှင်သာသနာ နောက်ပိုင်းတုန်းက ပေါ့၊ မထေရ်ကြီးတစ်ပါးဟာ တောရကျောင်းမှာ အနှစ် နှစ်သောင်းလောက် သီလ သမာဓိ ကောင်း ကောင်းနှင့် နေထိုင်လာခဲ့တာ၊ တစ်နေ့တော့ မြစ် ကြောင်းမှာ လှေကလေးတစ်စီးနှင့် ခရီးသွားခဲ့တယ်၊ ရေစီးသန်တဲ့အတွက် (ရေလယ်က မသွားဘဲ) ကမ်း စပ်နားက သွားခဲ့တယ်၊ နောက်တဖြည်းဖြည်း ရေက တိုးလာတော့ လှေကလေးဟာ ရေအားနှင့် မျောပါ သွားတော့တယ်၊ ဒီတွင် အမှတ်တမဲ့ ကြောက်အား လန့်အားနှင့် ကမ်းစပ်က ပိန်းပင်ကို လှမ်းပြီးဆွဲလိုက် တော့ ပိန်းပင်ဟာ ပြတ်ပြီး ပါလာတယ်။

"ဟာ-ဒုက္ခပဲ, ဒုက္ခပဲ, ငါ့မယ် ဘူတဂါမ်သစ်ပင်ကို ဖြတ်မိပေါ့၊ ပါစိတ်အာပတ် သင့်သွားပြီ၊ ဘယ့်နှယ် လုပ်ရပါ့၊ ဒေသနာပြောရအောင်လဲ တခြား ကိုယ် တော်ကို မမြင်ဘူး၊ ကမ်းစပ်ရောက်လို့ ကုန်းပေါ် တက်မိရင်တော့ ကိုယ်တော်တစ်ပါးပါးကို တွေ့ အောင်ရှာမယ်၊ ပြီးတော့ သင့်တဲ့ အာပတ်ကို ဒေသနာပြောပြီး ကုစားမယ်၊ ခုတော့ ငါ့မှာ အာပတ် က သင့်နေတုန်း, သင့်နေတုန်း, သင့်နေတုန်း"နှင့် တွေးနေရင်း လှေကလေးမျောပါသွားတယ်၊ အဲလိုနှင့် ဝဲထဲရောက်သွားပြီး ရေထဲမြုပ်လို့ ပျံလွန်တော်မူသွား ရတော့တယ်၊ ဒီတွင် အာပတ်ကို စိတ်က စွဲနေမိ တော့ "ဧရကပတ္တ=ပိန်းရွက်"ဆိုတဲ့ နာမည်နှင့် နဂါး ကြီး သွားဖြစ်တယ်၊ ဘယ်လောက်များ ကြောက်ဖို့ ကောင်းသလဲဆိုတာ မင်းတို့ စဉ်းစားသာ ကြည့်ကြ ပေတော့"။

ဆရာတော်သည် သိက္ခာပုဒ်တော်ကို လေးနက် သွားအောင် စိတ်ဝင်စားဖွယ်ကောင်းအောင် ဤသို့ လျှင် ဝတ္ထုကြောင်းကလေးများနှင့် တန်ဆာဆင်ကာ ဆက်စပ်ကာဖြင့် သံဝေဂရစရာ, သတိပြုစရာ, ရှောင်ကြဉ်စရာတို့ကို ပြောပြတော်မူတတ်ပါသည်။

ဤသို့လျှင် ပါစိတ်အာပတ်, ဒုက္ကဋ်အာပတ်ဟူ၍ အာပတ်က ငယ်သော်လည်း နဂါးဟူသောတိရစ္ဆာန် ဘဝသို့ ရောက်အောင် ဒုက္ခပေးနိုင်ပုံ, ဤနဂါးကြီး သည် ဘုရားနှစ်ဆူကြား ကာလပတ်လုံး ကြာရှည် လေးမြင့်စွာ နေခဲ့ရပုံတို့ကို ... ကြောက်မက်ဖွယ် ကောင်းလောက်အောင် အကြောင်းသာဓကအဖြစ် ဆရာတော်က ထုတ်ဖော်မိန့်မြွက်ပြလေ့ရှိပါသည်။

## ကပ္ပိနည်းက အမျိုးမျိုးရှိ

"အေး, အဲဒါကြောင့် ဘူတဂါမ် ဗီဇဂါမ်တို့ကို မဖျက်ဆီးမိအောင် သတိထားကြပါ၊ ဝိနည်းကို လေးစားကြပါ၊ ကပ္ပိရမည့် ပစ္စည်းကိုလဲ ကပ္ပိပြီးမှ စားသုံးကြပါ၊ ဒီနေရာမှာ "ကပ္ပိ"ဆိုတဲ့ စကားလုံးက ရဟန်းတို့အား အပ်စပ်အောင်ပြုခြင်းလို့ အဓိပ္ပာယ် ရတယ်၊ အပ်စပ်အောင်ပြုလုပ်နည်းက သုံးမျိုးတောင် ရှိတာ, ဘာတွေလဲဆိုတော့ ...(၁) မီးဖြင့်တို့ခြင်း, ရှို့ခြင်း၊ (၂) ဓားဖြင့် ခုတ်ခြင်း, ဖြတ်ခြင်း, လှီးခြင်း၊ (၃) လက်သည်းဖြင့် ဆိတ်ခြင်း, ဖြတ်ခြင်း, ထိုး ဖောက်ခြင်း၊ (၄) အစကတည်းက နုလွန်းတဲ့အစေ့ ဖြစ်နေလို့ အပင်မပေါက်နိုင်ခြင်း၊ (၅) သရက်, ပိန္နဲ, သြဇာ စသည်တို့ကဲ့သို့ အစေ့ကို သီးခြားထုတ်၍ ရနိုင်သော ဗီဇဂါမ်မျိုးစေ့တို့ဖြစ်ခြင်းလို့ ငါးမျိုးရှိတယ်၊ အဲဒီမှာ နောက်ဆုံး နှစ်မျိုးက ကပ္ပိဖို့ မလိုတော့ဘူး၊ ရှေ့သုံးမျိုးကိုသာ ကပ္ပိဖို့ လိုတယ်"ဟူ၍ ဆရာတော် က ရှင်းပြတော်မူသည်။

## ကပ္ပိယံ ကရောဟိ, ကပ္ပိယံ ဘန္တေ

စိုက်ပျိုးလို့ အပင်ပေါက်နိုင်သည့် ဗီဇဂါမ်အမျိုး အစားများကို ဖျက်ဆီးလျှင် ဒုက္ကဋ်အာပတ်သင့်၏၊ ထို့ကြောင့် ထိုဗီဇဂါမ်ငါးပါးတွင် ပါဝင်သော ငရုတ် သီး, ပူစီနံ, မြင်းခွာ, ကြံ, ချင်းတက် စသည်တို့ကို

တန်းပြီးစားသုံးလျှင် ဖျက်ဆီးရာရောက်သောကြောင့် အာပတ်သင့်နိုင်၏၊ သို့ဖြစ်၍ အာပတ်မသင့်စေရန် အပ်စပ်အောင် လုပ်ပြီးမှ (ဝါ) ကပ္ပိပြီးမှ စားသုံးခွင့်ရ၏၊ မည်သို့ ကပ္ပိရမည်နည်း?၊ ထိုငရုတ်သီး, ပူစီနံ, ကြံ စသည်တို့ကို စားသုံးလိုသောအခါ ရဟန်းက "ကပ္ပိယံ-အပ်စပ်အောင်၊ ကရောဟိ-ပြုပါလော့" ရဟန်းများ စားသုံးနိုင်အောင်, အပ်စပ်သွားအောင် ပြုလုပ်ပါဟု ဆိုလိုသည်။

ထိုအခါ လူပုဂ္ဂိုလ် (သို့မဟုတ်) သာမဏေက "ကပ္ပိယံ ဘန္တေ"ဟု ဆိုရင်း (သို့မဟုတ်) ဆိုပြီး ချက်ချင်း လက်သည်းဖြင့်သော်လည်း ဆိတ်ဆွ, ဓားဖြင့်သော်လည်း လှီးဖြတ်, မီးစဖြင့်သော်လည်း ထိုးဖောက် ရှို့မြှိုက်လိုက်ရ၏၊ အနည်းငယ် ဒဏ်ရာရသွားလျှင် အပ်ပြီ၊ မီးစတို့ဖြင့် ထိုးရာ၌လည်း အပူရှိန် အနည်းငယ် သင့်သွားလျှင်ပင် အပ်ပြီ၊ စားသုံးကောင်းပြီ၊ (ဘန္တေ-အရှင်ဘုရား၊ ကပ္ပိယံ-အပ်စပ်အောင်၊ ကရောမိ-ပြုပါ၏။) အပ်စပ်အောင် ပြုပါ၏ဘုရားဟု ဆိုလို၏။

ပါဠိလို မဆိုချင်လျှင်... ဘုန်းတော်ကြီးက "ကပ္ပိစမ်း"ဟု ပြောလိုက်ရ၏၊ လူ သာမဏေက "ကပ္ပိပါ၏ဘုရား"လို့ မြန်မာလိုဆို၍လည်း ကပ္ပိကောင်းသည်။

"ဟဲ့-ဣန္ဒော, မင်းတို့ ဆွမ်းပွဲထဲက ငါးပိရည်နှင့် တို့စရာတွေက ပူစီနံပင်တွေ မဟုတ်လား, ငရုတ်သီးစိမ်းတွေလဲ မြင်ရဲ့, ဒါတွေက ပြန်ပြီး မပေါက်နိုင်ဘူးလား?"။

"ပေါက်နိုင်ပါ အရှင်ဘုရား"။

"ဟဲ့-ဒါဆို ကပ္ပိရဦးမှာပေါ့, ကပ္ပိပြီးပလား"။

"ကပ္ပိပြီးပါပြီ အရှင်ဘုရား"။

"အေး အေး, အဲလို အလေ့အကျင့်လေးတွေ ဖြစ်နေပစေ, ဝိနည်းဆိုတာ အသေးအမွှားက စပြီး လေးစားရတယ်။

## စာတွေတတ်နေရုံနှင့်မပြီးသေး

ဆရာတော်သည် စာနှင့်အကျင့်, အကျင့်နှင့်စာ တစ်ထပ်တည်း ဖြစ်နေအောင် တပည့်တို့အား လေ့ကျင့်ပေးနေသည်၊ အချို့ပုဂ္ဂိုလ်တို့မှာ စာတွေဗိုက်ထဲ အပြည့်ရထားသော်လည်း (စာတွေကို စာတွေ တခြားထားပြီး) ကိုယ်ကျင့်စာရိတ္တများက ပရမ်းပတာ ဖြစ်နေတတ်ကြသည်ကို ဆရာတော်က မျက်မြင်တွေ့နေရသောကြောင့် သတိပေးနေခြင်းဖြစ်၏၊ ထို့ကြောင့်လည်း ဇာတ်တော်လာ အောက်ပါဂါထာကလေးများကို မကြာ မကြာ ရွတ်ပြတော်မူတတ်သည်။

**သဟဿဒေဝါပိ တံ အဓိစ္စ,**
**ဒုက္ခာ န ပမောစရေ စရဏံ အပတ္တာ၊**
**န စ ဝေဒါ အပလာ ဟောန္တိ,**
**ကိတ္တိဥ္စ ပပ္ပောတိ တံ အဓိစ္စ။**

ဒီဂါထာလေးက ဘုရားအလောင်းတော်ပြောတဲ့ စကားပဲကွယ့်၊ အသားလဲ ပါတယ်၊ မှတ်လဲ မှတ်သားထိုက်ပါတယ်၊ အဓိပ္ပာယ်က "ဝေဒသုံးပုံမကလို့ တစ်ထောင်လောက်အထိ တတ်သိနေပေမဲ့လဲ အဲဒီ ဝေဒကို စွဲပြီး (အဲဒီ ဝေဒတွေ တတ်နေခြင်းကြောင့်တော့) စရဏမပါဘဲ (ဝါ) ကိုယ်ကျင့်ဝိနည်းမကျင့်သုံးဘဲ ဒုက္ခမှ မလွတ်မြောက်နိုင်ပါဘူး"တဲ့၊ ကဲ-ဘယ်လောက်မှန်သလဲလို့, ဟုတ်လိုက်တာ။

ပြီးတော့ အဲဒီ ဝေဒတွေဟာ အကျိုးလုံးဝမရှိတော့လဲ မဟုတ်ပါဘူးတဲ့၊ သူ့ကို စွဲပြီး (သူ့ကို တတ်မြောက်ထားတဲ့အတွက်) နာမည်ကြီးဖို့တော့ ဖြစ်သားပဲတဲ့၊ ဒီမျှလောက်ပဲ အကျိုးကို ဖော်ပြပါတယ်။

မင်းတို့ သတိရှိကြ၊ ကိုယ်ကျင့်ဝိနည်းမပါလို့ ဖြစ်ကို မဖြစ်ပါဘူး" တဲ့ ဆရာတော်က အမိန့်ရှိသည်။

## ကိုင်မထားဘဲ ကပ္ပိနိုင်းကောင်း

"ပြီးတော့ မှတ်သားဖို့က ကပ္ပိကြတဲ့အခါမှာ တချို့ဆရာတော်တွေက ကပ္ပိတဲ့ပစ္စည်းကို လက်နှင့် ကိုင် ထိစပ် ကပ်ထားတော်မူကြတယ်၊ ကိုင်မထားပေမယ့် ပစ္စည်းက လက်နှင့် လွတ်နေသော်လည်း

အဝ်တယ်လို့ ကျေးဇူးရှင် ဆရာတော်ကြီးများ မိန့်တော်မူကြပါတယ်၊ လက်နှင့်ကိုင်ထားလည်း အပြစ်မရှိပါဘူး၊ မြောင်းမြဆရာတော်ကြီးကဆိုရင်… "တောင်ပုံရာပုံ ကြီးမားစွာပုံထားတဲ့ ကြံရိုးပုံ, သစ်သီးပုံကြီးကို ရဟန်းက မထိမကိုင်ဘဲ အဝေးကနေပြီး "ကပ္ပိယံ ကရောဟိ"လို့ ဆိုလိုက်ရတယ်၊ အဲဒီမှာ လူဝတ်ကြောင်ဖြစ်စေ, သာမဏေကဖြစ်စေ "ကပ္ပိယံ ဘန္တေ"လို့ ဆိုပြီး ဓားနှင့်ခုတ်ဖြတ်လိုး, ဒါမှမဟုတ် မီးစနှင့်ထိုးလိုက်လျှင် တစ်စပ်တည်းနေသမျှအားလုံး သစ်သီးအားလုံး အကုန်အဝ်တော့တယ်"လို့ အမိန့်ရှိပါတယ်၊ ကျမ်းတတ်အကျော် ဆိပ်ဖြူဆရာတော်ကြီးကဆိုလျှင် ကျောင်းပေါ်ကနေပြီး မီးတင်းကုပ်ထဲကို လှမ်းပြီး "ကပ္ပိယံ ကရောဟိ"လို့ ဆိုလိုက်ပါသတဲ့၊ ဒီတွင် မီးတင်းကုပ်ထဲက သာမဏေက "ကပ္ပိယံ ဘန္တေ"လို့ ဆိုပြီး ကပ္ပိလိုက်တာပဲ၊ အဲဒါကို ယူလာကပ်တော့ ဘုဉ်းပေးတာ မြင်ဖူးတယ်လို့ စံကျောင်းဆရာတော်ဘုရားကြီးက မိန့်တော်မူပါသတဲ့"။

ဤသို့လျှင် ဆရာတော်က သူကြားဖူးသမျှ အပြင် ဗဟုသုတကိုလည်း မိန့်တော်မူတတ်ပါသည်။

## ဘူတဂါမ်ကို ကပ္ပိလို့မရ

အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်အတွင်း၌ နေ့စဉ်သန့်ရှင်းရေးလုပ်ကြရသည့်ပြင် အဖိတ်နေ့တိုင်း ညနေပိုင်းဆိုလျှင် အထူးပင် သေနာသနဝတ်ကို ပြုလုပ်ကြရ၏၊ စာချဘုန်းကြီးများက ဦးဆောင်၍ စာသင်သားရဟန်းငယ် သာမဏေ ဖိုးသူတော်တွေပါ မကျန် သူတန်ရာ တန်ရာ ဆောင်ရွက်ကြရသည်၊ တစ်ခုသော အဖိတ်နေ့ ညနေတွင် ဖြစ်၏၊ စာချဘုန်းကြီး ဦးကောဝိဒက လူ့တစ်ရပ်စာမျှရှိသော တမာငုတ်ကြီးကို ပုဆိန်ဖြင့် ပေါက်၍ ဖြတ်နေသည်၊ ယင်းတမာငုတ်ကြီးမှာ မိုးတွင်းရောက်သောအခါ မြေမှ အစိုဓာတ်ဖြင့် ကိုင်းတက် ရွက်နုကလေးများ စိမ်းလန်းစိုပြည် ဝေနေအောင် ပြန်ပေါက်နေသော ငုတ်ကြီးဖြစ်၏။

ဆရာတော်သည် သံဃာများ၏ ဝေယျာဝစ္စ အလုပ်စခန်းသို့ လှည့်လည်ကြည့်ရှုရင်း အနားသို့ ရုတ်တရက် ရောက်လာ၏၊ ဆရာတော် အံ့အားသင့်သွားသည်။

"ဟဲ့-ကောဝိဒ, နင် အဲဒီ အပင်ကြီးကို ခုတ်ဖြတ်လှဲနေသလား?"။

"မှန်ပါ အရှင်ဘုရား"။

"ဟဲ့-အညွန့်တွေတောင် ဝေနေအောင် ပြန်ပေါက်နေပြီ မဟုတ်လား?"။

"မှန်ပါ, ကပ္ပိပြီးမှ ခုတ်တာပါဘုရား"

"သေပါတော့ဟယ်, နင့်နှယ်၊ ကဲ-ငါမေးမယ်, အဲဒီအပင်ဟာ ဘူတဂါမ်လား, ဗီဇဂါမ်လား ပြောစမ်း"။

"မှန်ပါ, ဘူတဂါမ်ပါအရှင်ဘုရား"။

"အေး-ဟုတ်တယ်ဟဲ့, အမြစ်တွေရော, ကိုင်းတက်, အရွက်ညွှန့်တွေရော စုံနေရင် ဘူတဂါမ်ခေါ်တယ်၊ အမြစ်ချည်းသာရှိပြီး ကိုင်းတက် ရွက်ညွှန့် မပါလို့ဖြစ်စေ, ကိုင်းတက် ရွက်ညွှန့်သာရှိပြီး အမြစ် မပါလို့ဖြစ်စေ ဆိုရင်တော့ ဗီဇဂါမ်လို့ ခေါ်တယ်"။

"မှန်ပါ အရှင်ဘုရား"။

"အေး-အဲဒီ နှစ်မျိုးတွင် ဘူတဂါမ်ကို ကပ္ပိလို့ ရရဲ့လားဟဲ့"

ထိုအခါ စာချဘုန်းကြီး ဦးကောဝိဒသည် ပါးစပ်အဟောင်းသားနှင့် အံ့အားသင့်နေရတော့၏၊ အမှတ်တမဲ့ ဖြစ်သွားသည်၊ ယခုမှ စာချဘုန်းကြီး ဘဝ ဖြစ်ခါစလည်း ရှိသေးသည်၊ အမှန်မှာ စာချဘုန်းကြီး ဦးကောဝိဒသည် အလွန်ရိုးသား၏၊ စိတ်ကောင်း ရှိသူလည်း ဖြစ်၏၊ ဆရာတော်လည်း သိသည်၊ ထို့ကြောင့်ပင် သင်ပြနေခြင်း ဖြစ်သည်။

"မှန်ပါ, အမှတ်တမဲ့ ဖြစ်သွားပါ အရှင်ဘုရား"။

"အေး-မှတ်ထား, ဗီဇဂါမ်ကိုသာ ကပ္ပိလို့ရတယ်, ဘူတဂါမ်ကို ကပ္ပိလို့ မရဘူးဟဲ့၊ နင်တို့တော့လားဟယ်, ငါ စာထဲကို ထည့်ရေးဦးမယ်၊ ဟောဒီ ဂန္ဓာရုံတိုက်မှာလို့, စာချဘုန်းကြီးတစ်ပါး ဘူတဂါမ်သစ်ပင်ကို ကပ္ပိပြီး ခုတ်လှဲနေသတဲ့လို့"။

ဆရာတော်သည် အားမလို အားမရနှင့် ငယ်မွေးခြိပေါက် တပည့်ကြီးကို ကရုဏာဒေါသောဖြင့် ပြောရင်း, မြည်တွန်ရင်း နေရာမှ ထွက်သွားပါတော့သည်။

# ဥပုသ်ပြုမသွားလိုသည်ကို ဘုရားကိုယ်တော်တိုင်ကြွ၍ တိုက်တွန်း

## စင်ကြယ်နေသား သွားဖို့လိုမည်မထင်

တစ်လလျှင် နှစ်ကြိမ် (လပြည့် နှင့် လကွယ်နေ့တိုင်း) ဥပုသ်ပြုရမည်၊ တစ်ပါးတည်းသာရှိသော ကျောင်းဖြစ်လျှင် အဓိဋ္ဌာန်ဥပုသ်, နှစ်ပါး သုံးပါး ရှိလျှင် ပါရိသုဒ္ဓိဥပုသ်, လေးပါးကစ၍ အထက်မှာ ရှိလျှင် သံဃာ့ဥပုသ် ပြုရမည်၊ မပြုလျှင် ဒုက္ကဋ်အာပတ် သင့်စေ"ဟု ဘုရားရှင်က ပညတ်တော်မူထား၏၊ "သံဃာ့ဥပုသ်"ဟူသည် အာရှင်းလျှာရှင်း၍ ပီသပြတ်သားသော ကိုယ်တော်တစ်ပါးက ဘုရားပညတ်အပ်သော ပါတိမောက် ဝိနည်းစည်းကမ်း ဥပဒေသတို့ကို အလွတ်ရွတ်၍ ပြရ၏၊ ကျန်သံဃာများက နာကြားနေရခြင်း ဖြစ်သည်၊ ထိုသို့ မနာမီ အာပတ်အပြစ် စင်ကြယ်အောင် ပြုရသေး၏၊ ထို့ကြောင့် အာပတ်စင်ကြယ်အောင် ပြုလုပ်သော ပွဲကဲ့သို့လည်း ဖြစ်သည်။

ဤပွဲသို့ သတ်မှတ်ထားသောနယ်အတွင်းရှိ သံဃာအားလုံး စုရုံးညီညွတ်စွာတက်ရောက်ကြရ၏၊ သံဃာအများ စုပေါင်း၍ ဆုံးဖြတ်စရာရှိလျှင်လည်း ဤပွဲတွင် ဆန္ဒခံယူ ဆုံးဖြတ်ကြရသည်၊ ဤသို့သော သံဃာ့စုံညီပွဲကို အလေးအမြတ် ထားရ၏။

*အရှင်မဟာကပ္ပိနသည် ရဟန္တာပုဂ္ဂိုလ် အရှင်မြတ် တစ်ပါး ဖြစ်၏၊ ရာဇဂြိုဟ်မြို့၏အပြင်ဘက် တစ်ခုသော တောအုပ်တွင် တစ်ပါးတည်း အေးချမ်းစွာ သီတင်းသုံးတော်မူသည်၊ ဥပုသ်ပြုရမည့် နေ့တစ်နေ့ဝယ် အတွေးတစ်ခု ပေါ်လာ၏။...

**ဂစ္ဆေယျံ ဝါဟံ ဥပေါသထံ န ဝါ ဂစ္ဆေယျံ၊**
**ဂစ္ဆေယျံ ဝါဟံ သံဃကမ္မံ န ဝါ ဂစ္ဆေယျံ၊**
**အထ ခွါဟံ ဝိသုဒ္ဓေါ ပရမာယ ဝိသုဒ္ဓိယာ။**

"ငါသည် ဥပုသ်ပြုရာဌာနသို့ သွားသွား မသွားသွား, ငါသည် (အများဆန္ဒဖြင့် ဆုံးဖြတ်ရာ) သံဃာ့ကိစ္စရှိရာသို့ သွားသွား မသွားသွား, စင်စစ်ကား ငါသည် အလွန့်အလွန် စင်ကြယ်ခြင်း စင်ကြယ်နေပြီးသားကပဲ"

## မသွားဘဲမနေနှင့်, သွားဖြစ်အောင်သွား

ဘုရားရှင်က အရှင် မဟာကပ္ပိန၏ အတွေးကို သိတော်မူလိုက်၍ ချက်ချင်းရောက်လာတော်မူ၏၊ ယခုတင်က တွေးခဲ့မိသည်ကိုလည်း ပြန်၍မေးတော်မူ၏၊ အရှင်မဟာကပ္ပိနက ဝန်ခံရတော့သည်၊ ထိုအခါ ဘုရားရှင်ကိုယ်တော်မြတ်က "သင်တို့လိုပုဂ္ဂိုလ်တွေကမှ ဥပုသ်ပြုခြင်းကို မလေးစားလျှင် မရှိသေလျှင် အဘယ်သူတွေက လေးစားရိုသေတော့မည်လဲ" ဟု မိန့်တော်မူကာ...

**"ဂစ္ဆ တွံ, ဗြာဟ္မဏ, ဥပေါသထံ, မာ နော အဂမာသိ၊ ဂစ္ဆ တွံ သံဃကမ္မံ, မာ နော အဂမာသိ"**။

မကောင်းမှုမှ အပပြုပြီးသောရဟန်း...သင်သည် ဥပုသ်ပြုရာဌာနသို့ သွားပါလော, မသွားဘဲ မနေပါနှင့်၊ (အများဆန္ဒဖြင့် ဆုံးဖြတ်ရာ) သံဃာ့ကိစ္စရှိရာသို့ သွားပါလော, မသွားဘဲ မနေပါနှင့်"ဟူ၍ တင်းတင်းကြပ်ကြပ်ပင် တိုက်တွန်းတော်မူသွားသည်။

ဤသို့လျှင် သံဃာ့ ညီညွတ်ရေး, သံဃာစုံစည်းဝေးသော ပွဲမျိုးကို အလေးအမြတ်ထားရန် ဘုရားရှင်က ကြောင့်ကြတော်မူခဲ့၏၊ ရဟန္တာပုဂ္ဂိုလ်ဖြစ်၍ စင်ကြယ်နေပြီး ဖြစ်သော်လည်း "မသွားဘဲ မနေနှင့်" ဟူ၍ပင် အတန်တန် မှာတော်မူသည်၊ သို့ကလောက်ပင် အများအကျိုး အစဉ်အလာကို ထိန်းသိမ်းရန် ဥပုသ်ပြုခြင်းကိစ္စကို အလေးထားတော်မူ၏၊ ထို့ကြောင့်လည်း အနည်းဆုံး သံဃာ လေးပါးရှိလျှင်ပင် "စုရုံး၍ သံဃာ့ဥပုသ်ပြုရမည်"ဟု ပညတ်တော်မူခြင်းဖြစ်သည်၊ ယခုအခါ များစွာသော

---

* ဝိ, ဥပေါသထက္ခန္ဓက-၁၄၃၊

နေရာတို့၌ လေးပါးထက်ကျော်သော်လည်း သံဃာ့ဥပုသ် မပြုချင်ကြဘဲ နှစ်ပါး နှစ်ပါးတွဲ၍ သိမ်ထဲသို့ သွားကာ လွယ်ကူသော ပါရိသုဒ္ဓိဥပုသ်ကိုသာ ပြုလိုက်ကြတော့၏၊ အချို့ကမူ သိမ်ထဲသို့ပင် မသွားကြတော့၊ သူတို့အကြောင်းပြကား "လုံးဝ ဥပုသ်မပြုလျှင်လည်း ဥပုသ်မပြုခြင်းကြောင့် အာပတ်သင့်မည်၊ လေးပါးထက်ကျော်ပါလျက် သံဃာ့ဥပုသ်မပြုဘဲ ပါရိသုဒ္ဓိဥပုသ်ပြုလျှင်လည်း အာပတ်သင့်မည်ပင်၊ ထို့ကြောင့် အာပတ်မလွတ်အတူတူ အညောင်းခံပြီး သိမ်ထဲကိုပါ မသွားတော့ဘူး"ဟူ၍ ဖြစ်၏။

## အန္တရာယ်မရှိလျှင် အကျယ်ပြ

အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်၌ကား... သံဃာလေးငါးခြောက်ပါး ရှိစဉ်ကပင် စတင်၍ သံဃာ့ဥပုသ်ပြုခဲ့ကြ၏၊ သံဃာအရေအတွက်ပြည့်လျှင် သံဃာ့ဥပုသ်ပြုစေချင်သော ရှင်တော်ဗုဒ္ဓ၏ အလိုတော်ဆန္ဒနှင့် ကိုက်ညီနိုင်သမျှ ကိုက်ညီရန် ဖြစ်သည်၊ သို့သော် ရှေ့ပိုင်းတုန်းကမူ နိဒါန်းနှင့် ပါရာဇိကုဒ္ဒေသမျှသာ ရွတ်ဆို၍ ဥဒ္ဒေသနှစ်ခုမျှသာ ပြနေခဲ့ခြင်း ဖြစ်၏၊ အတော်ကြာသောအခါမှ သံဃာဒိသေသ်ပါတိုး၍ ဥဒ္ဒေသသုံးခု ဖြစ်လာသည်၊ ဆရာတော် အရှင်ဇနကာဘိဝံသကိုယ်တိုင် ပြတော်မူ၏၊ **"ထေရာစယျံ ပါတိမောက္ခံ"** ဟု ဆိုသည် မဟုတ်ပါလော။

တစ်နေ့တွင် (ဆရာတော် အရှင်ဇနကာဘိဝံသ၏ ဆရာရင်း) မြောင်းမြဆရာတော်ကြီး ရောက်လာတော်မူသည်၊ ဥပုသ်နေ့နှင့်ကြုံ၍ သိမ်ထဲတွင် သံဃာစုံသောအခါ "ဥဒ္ဒေသ ဘယ်နှစ်ခုပြမှာလဲ"ဟု ဆရာတော်ကြီးက မေးတော့၏၊ ဆရာတော် အရှင်ဇနကာဘိဝံသက "ဥဒ္ဒေသသုံးခု ပြမှာပါဘုရား"ဟု လျှောက်ထားသောအခါ "ဟင်"ဟု ဆို၍ ဆရာတော်ကြီးက နှာခေါင်းရှုံ့လေသည်၊ ထို့ကြောင့်ထိုနေ့က အနိယတပါ တိုး၍ ဥဒ္ဒေသလေးခု ပြရတော့၏။

ဥပုသ်ပြုပြီးသောအခါ မြောင်းမြဆရာတော်ကြီးက ဆက်လက်၍ ဩဝါဒပေးတော်မူသည်၊ ဆရာတော်ကြီးကား သူ့တပည့်၏ ကျောင်းတိုက်ကိုလည်း သူ့ကျောင်းတိုက်ကဲ့သို့ပင် သဘောထားတော်မူ၏။ ထို့ကြောင့် ညွှန်ကြားစရာ ဖြည့်စွက်စရာ ဩဝါဒပေးစရာရှိလျှင် တွံ့နှေးနေသည်မဟုတ်ချေ၊ အသံကြီးအောအောဖြင့် ချက်ချင်းပင် ပြောတော်မူတတ်၏၊ ယခုလည်း ပြောနေချေပြီ။

"သံဃာ့ဥပုသ် ပြုတဲ့အခါ... စွမ်းနိုင်သမျှ ပါတိမောက်ကို အကျယ်ပြုရတယ်၊ အန္တရာယ် ၁၀ ပါး တစ်ပါးပါးမှ မရှိရင် အကျယ်ပြုရတာပဲ၊ အကျဉ်းနဲ့ မရဘူး၊ အကယ်၍ စာမရရင် စာအုပ်ကြည့်ပြီး ဖတ်ပေါ့၊ စာအုပ်ကို ကြည့်ဖတ်လို့ အပြစ် ရှိတယ်လို့ မဆိုဘူး၊ အကြောင်း မလုံလောက်ဘဲနဲ့ အကျဉ်းပြုလို့သာ အပြစ်ရှိတယ်လို့ ဆိုတယ်။

တချို့က အကြောင်းပြကြတယ်၊ 'ကြာကြာ မထိုင်နိုင်လို့'တဲ့၊ ဒီအကြောင်းလောက်နဲ့ မရဘူး၊ မလုံလောက်သေးဘူး၊ ဝလွန်းလို့၊ ရောဂါတစ်ခုခု ရှိလို့ ကြာကြာမထိုင်နိုင်ဘူးဆိုရင် ထိုင်ခုံကလေးမျိုး၊ ကြာကြာ ထိုင်နိုင်တဲ့ အရာမျိုးနဲ့ ထိုင်ပြီး နာနိုင်တာပဲ၊ စာထဲမှာ ဒီသဘောမျိုး ပြထားတာ ရှိတယ်၊ အဲဒီအခါမှာ ပါတိမောက်ပြတဲ့သူကိုလဲ သင့်တော်တဲ့ ခုံအမြင်နဲ့ ထားရမယ်။

အဲကြောင်း မလုံလောက်ဘဲနဲ့ ပါတိမောက် အကျဉ်းပြုမှုကိုတော့ ဘုရားက လိုလားတော်မူမယ် မဟုတ်ဘူး" စသည်ဖြင့် ဩဝါဒပေးတော်မူ၏။

## သံဃာ့ဥပုသ်သည် တန်ဖိုးအလွန်ကြီး

ထို့နောက် ဆရာတော် အရှင်ဇနကာဘိဝံသက "ပါတိမောက်အကုန်လုံး (ဥဒ္ဒေသ ငါးခုလုံး) ပြနိုင်အောင် ကြိုးစားကြရမယ်, ပြကြရမယ်"ဟု တပည့်တို့အား အမိန့်ချတော့သည်။

ထိုအချိန်မှစ၍ ယနေ့ တိုင်အောင်ပင် လပြည့် လကွယ်နေ့တိုင်း သံဃာ့ ဥပုသ်လည်း ပြုကြ၏၊ ပါတိမောက်ကိုလည်း အကုန်လုံး (ဥဒ္ဒေသ ငါးခုလုံး) အကျယ်ပြရတော့သည်၊ တစ်နာရီခန့်မျှ ကြာ၏။

ရှေ့ပိုင်းမှ ရဟန်းတော်များ ဉပုသ်ပြုပြီးလျှင် နောက်ပိုင်းမှ သာမဏေများက ဆက်လက်၍ သိမ်ထဲသို့ ဝင်လာရ၏၊ ပြီးလျှင် ဆရာတော့်ထံ သရဏဂုံ ထပ်၍ယူကြရသည်၊ နိဿရည်းပျက်သွားသော ရဟန်းများအတွက်လည်း ဤပွဲမှာပင် နိဿရည်းပြန်၍ ယူကြရ၏။

"သံဃာ့ဉပုသ်ပြုနိုင်သော အခွင့်အရေးသည် နှယ်နှယ်မျှ မဟုတ်ချေ၊ တန်ဖိုးအလွန်ကြီးမား၏၊ ညီညွတ်သော သံဃာများဖြစ်မှသာ ပြုနိုင်သည်"ဟု ရွှေကျင်သာသနာပိုင် မြောင်းမြဆရာတော်ဘုရားကြီးက အမိန့်ရှိ၏၊ ထို့ကြောင့် သံဃာ့ဉပုသ်ပြုသည်ဆိုလျှင်ပင် သံဃာများ ညီညွတ်သည်ဟုလည်း ပြောရာရောက်တော့၏၊ သံဃာညီညွတ်လျှင် ညီညွတ်သူတို့၏ အလုပ်ဟာ **(သမဂ္ဂါနံ တပေါ သုခေါ)**အရ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာဖို့အကြောင်း ဖြစ်တော့သည်၊ ထို့ကြောင့်ပင် ဗုဒ္ဓရှင်တော်မြတ်က သံဃာ့ဉပုသ်ကို အရေးထား၍ လေးစားရန် အရှင် မဟာကပ္ပိနအား မိန့်ကြားတော်မူခြင်း ဖြစ်ပေလိမ့်မည်။

## ကြည်ညိုဖွယ် ရေးမှုစနစ်တစ်ခု

ရှေးတုန်းက သံဃာများ ဆွမ်းခံကြွလာသောအခါ ဒကာ, ဒကာမတို့က "ယခုအခါ သံဃာဦးရေဘယ်လောက်ရှိပါသလဲ"ဟု မေးတတ်ကြ၏၊ ရဟန်းတို့က မဖြေနိုင်ဘဲ ရှိကြရာ ဒကာ, ဒကာမတို့က "သည်မျှလောက်ပင် ပေါ့ပေါ့ဆဆနေကြရသလော" ဟု ကဲ့ရဲ့ကြဖူးသည်၊ ဤကိစ္စကို အကြောင်းပြု၍ ရှင်တော်ဗုဒ္ဓက "ဉပုသ်ပြုသောအခါ သံဃာဦးရေကိုပါ ရေတွက်၍ လျှောက်ထားရမည်"ဟု ပညတ်တော်မူ၏။

ထို့ကြောင့် သံဃာ့ဉပုသ်ပြုသောအခါ ရှေးဦးစွာ ပရိကမ်တွင် သိမ်တွင်းသို့ ကြွရောက်ပါဝင်သော သံဃာများ၏ ဦးရေကို ရေတွက်၍ လျှောက်ထားရသေးသည်၊ ရေတွက်ရာ၌ သံဃာနည်းနည်းပါးပါးဆိုလျှင် နာမည်စာရင်းကို ခေါ်၍ တွက်နိုင်၏၊ သံဃာများလျှင်ကား ရေတွက်ရာ၌ မှားတတ်သောကြောင့် ဝါးခြမ်းစိပ်ကလေးများကို ယူစေ၍ ရေတွက်ခွင့်ပေးသည်၊ ဤအတွက် **(အနုဇာနာမိ ဘိက္ခဝေ တဒဟုပေါသထေ သလာက ဂါဟေတုံ)**ဟု မိန့်မှာတော်မူထားသည်။

ထိုစနစ်ကို ဉပုသ်ပြုသံဃာများလှသောအမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်၌ ယခုအခါ အသုံးပြုလျက် ရှိသည်၊ ကြည်ညိုဖွယ်တစ်မျိုးပင် ကောင်းတော့၏၊ ဉပုသ်ပြုရာ သိမ်အဝင်ဝ၌ စားပွဲတစ်လုံးပေါ်တွင် သံပုံးငယ်နှစ်ခု ချထားသည်ကို တွေ့ရမည်ဖြစ်သည်၊ ပထမပုံးထဲ၌ (၁၀ လက်မခန့် ရှည်၍ ကညစ်ရိုးခန့်မျှ တုတ်သော) ဝါးခြမ်းစိပ်ကလေးများ ထည့်ထား၏။

သိမ်တွင်းသို့ ဝင်လာသော ရဟန်းတော်တစ်ပါးသည် ပထမပုံးမှ ဝါးခြမ်းစိပ်ကလေးတစ်ခုယူ၍ ဒုတိယပုံးထဲသို့ ထည့်လိုက်ရ၏၊ နောက်နောက်ဝင်လာသော ရဟန်းတော်များသည်လည်း ထိုနည်းအတိုင်းပင် ယူ၍ ထည့်ရသည်၊ နောက်ဆုံး သံဃာကုန်သောအခါ ဒုတိယပုံးထဲ၌ရှိသော ဝါးခြမ်းစိပ်ကလေးတို့ကို ယူ၍ ရေတွက်ကြည့်ခြင်းဖြင့် သံဃာဦးရေ မည်မျှရှိသည်ကို လွယ်လွယ်ကူကူ သိနိုင်တော့သည်။

## မဟာဂန္ဓာရုံတိုက်၌ နိဿရည်းယူရသောအလေ့

**ဆရာတော်**။ ။"ကဲ-ဘုန်းကြီး တစ်နေ့တုန်းက မလွဲသာတဲ့ သာသနာ့ရေးကိစ္စနဲ့ ခရီးသွားလိုက်ရလို့ညဉ့်ပျက်သွားတယ်၊ ဒီတော့ ဘုန်းကြီးထံ ဉပဇ္ဈာယ်ယူမဟုတ်တဲ့ သူတွေက နိဿရည်းပြန်ယူကြရမယ်။

(တစ်ခုသောဉပုသ်နေ့၏ ညနေပိုင်း ပါတိမောက်ပြ၍အပြီး မိန့်ကြားခြင်းဖြစ်၏။)

**တပည့်များ**။ ။ **အာစရိယော မေ ဘန္တေ ဟောဟိ, အာယသ္မတော နိဿာယ ဝစ္ဆာမိ**။ (သုံးခေါက်ပြိုင်တူဆို၍ ယူကြရ၏။)

**ဆရာတော်**။ ။ အနက်ပါ ပေးလိုက်ကြ။

**တပည့်များ**။ ။ ဘန္တေ- အရှင်ဘုရား၊ (တွံ- အရှင်ဘုရားသည်၊) မေ-တပည့်တော်၏၊ အာစရိယော-မှီခိုဖို့ရာ နိဿရည်း ဆရာသည်၊ ဟောဟိ-ဖြစ်တော်မူပါ၊ အာယသ္မတော-အရှင်ဘုရားကို၊ နိဿာယ-မှီ၍၊ ဝစ္ဆာမိ-နေပါအံ့။ (ပြိုင်တူ အနက်ပေးကြသည်။)

**ဆရာတော်**။ ။ **ပါသာဒိကေန သမ္ပာဒေဟိ**။

**တပည့်များ**။ ။ **အာမ ဘန္တေ**။

**ဆရာတော်**။ ။ အေး-အဲဒီမှာ "အာယသ္မတော" ဘာဝိဘတ်လဲ?။

**တပည့်များ**။ ။ "သ"ဝိဘတ်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ *အေး-ဟုတ်တယ်၊ "သ"ဝိဘတ် ဖြစ်လျက်နဲ့ "ကို"လို့ အနက်ပေးထားတယ်၊ ဒါဟာ ကံအနက်၌ ဆဋ္ဌီသဝိဘတ်သက်ထားတယ်လို့ ဋီကာက ဖွင့်တယ်။

**တပည့်များ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ တစ်နည်းတော့လဲတဲ့ "**အာယသ္မတော (ဩဝါဒံ) နိဿာယ ဝစ္ဆာမိ**" လို့ ဩဝါဒပုဒ်ကျန်တဲ့အနေနဲ့လဲ ယူနိုင်ပါတယ်တဲ့၊ အဲဒီလိုဆိုရင်... "အရှင်ဘုရား၏ ဩဝါဒကို မှီ၍ နေပါအံ့"လို့ အဓိပ္ပာယ်ယူရမယ်တဲ့။

**တပည့်များ**။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်**။ ။ အေး-အဲလိုလဲ သဒ္ဒါနည်းကို သွားရင်းဟန်လွဲ သိထားကြရတယ်၊ မှတ်သွားရမယ်။

**တပည့်များ**။ ။ မှန်ပါ အရှင်ဘုရား။

## ဆရာ တပည့် မကင်းကွာရ

ဆရာတော်သည် နိဿရည်းပေးသောအခါ၌ ဖြစ်စေ, ဉပဇ္ဈာယ်ပေးသောအခါ၌ ဖြစ်စေ, ဝါကပ်သောအခါ၌ ဖြစ်စေ, ပဝါရဏာပြုကြသောအခါ၌ ဖြစ်စေ ဆိုင်ရာ ဆိုင်ရာ မှတ်သားဖွယ်ကလေးများကို တပည့်တို့အား အကွက်ကျကျ ပြောကာ ပြောကာ ပြတတ်၏၊ ယူတတ်သော တပည့်တို့ ရကြသည်၊ ဆရာသမားတို့ဟူသည်ကား ပရိသတ်လူများစုထဲသို့ ပိုက်ဆံကြဲသူနှင့်တူ၏၊ ကြဲသူက အကုန်လုံးအတွက် ကြဲခြင်းဖြစ်သည်၊ သို့သော် ကောက်ယူတတ်သူမှသာ ရနိုင်၏၊ မကောက်ဘဲ ငေးနေသူများ မရ၊ ထိုဥပမာ အတိုင်းပင် ယခု ဆရာတော်က ဩဝါဒတွေ မိန့်မြွက်နေချေပြီ၊ မှတ်သားနာယူတတ်သူများ ရကြ၏။

"ဘုန်းကြီးတို့ သာသနာမှာ နေရေး ထိုင်ရေးနဲ့ ပတ်သက်လို့ သိပ်သိပ်သည်းသည်း ရှိအောင်, ကျစ်ကျစ်လျစ်လျစ် ဖြစ်အောင် မြတ်စွာဘုရားက ဖွဲ့စည်းထားတာ အလွန် စိတ်ဝင်စားဖွယ်ကောင်းတယ်၊ ကြည်ညိုဖွယ်လဲ ကောင်းတယ်၊ အခုကြည့်ပါလား၊ ဥပဇ္ဈာယ်မရှိရင် နိဿရည်း ယူရမည်တဲ့၊ သာသနာထဲဝင်လာရင် ဦးစွာပထမ ဥပဇ္ဈာယ် ရှိရတယ်၊ ဥပဇ္ဈာယ်ရှိပြီးမှ ရဟန်းခံလို့ဖြစ်တယ်၊ ဥပဇ္ဈာယ် ဆိုတာ အစစ အရာရာ သင်ပြပေးရတဲ့ ဆရာပဲ၊ သာသနာထဲဝင်ချင်ရင် ဒီဆရာ ပါရမယ်တဲ့၊ ဆရာနဲ့ တပည့်နဲ့ တစ်ခါတည်း ကပ်လျက်လာရတာ။

ဒီဥပဇ္ဈာယ်ဆရာက တပည့်ရဲ့ ဝတ်ပုံ စားပုံ, သွားပုံ လာပုံ, နေပုံ ထိုင်ပုံ, ကျင့်ပုံ ကြံပုံ အကုန် သင်ပေးရတာ၊ ဆရာက တပည့်အပေါ် သားသမီးစိတ်, တပည့်ကလဲ ဆရာ့အပေါ် အဖေစိတ်ရှိပြီး ဗိုင်းကောင်းကျောက်ဖိလို ပိပိရိရိ ဖြစ်အောင်လို့ မြတ်စွာဘုရားက ဖွဲ့စည်းပညတ်ထားတာ။

ဒါကို နမူနာယူပြီး လုပ်တာပဲ၊ စည်းကမ်းကြီးတဲ့ စာသင်တိုက်တွေမှာ "အုပ်ထိန်းသူ အာမခံပါရမယ်" ဆိုတာ ဒါပေါ့။

---

* ဝဇိရဗုဒ္ဓိဋီကာ—၄၁၉။

## ဥပဇ္ဈာယ်မရှိလျှင် နိဿရည်းယူ

အဲ-အဲဒီ ဥပဇ္ဈာယ် မရှိဘူး ဆိုရင်တော့တဲ့၊... [“ဥပဇ္ဈာယ်မရှိဘူး”ဆိုတာက ဥပဇ္ဈာယ်ပျံလွန်တော်မူသွားလို့ဖြစ်စေ, ဥပဇ္ဈာယ်နဲ့ ခွဲခွာပြီး အခုလို စာသင်တိုက်တွေမှာ လာနေကြတဲ့အခါ (သို့မဟုတ်) အခြားကိစ္စနဲ့ အခြားနေရာတွေမှာ သွားနေရတဲ့အခါမျိုးဖြစ်စေ] “နိဿရည်းယူပြီး နေရမယ်”တဲ့၊ နိဿရည်းဆိုတာလဲ မှီခိုပြီးနေရတဲ့ ဆရာပါပဲတဲ့၊ အဲဒီ နိဿရည်း ဆရာကလဲ ခုနတုန်းက ဥပဇ္ဈာယ်ဆရာလိုပဲ အစစ အရာရာ သင်ပြပေးရတာပဲ၊ လိုရင်းကတော့ ငယ်ရွယ်တဲ့သူတွေဟာ ဘယ်ခါမဆို ဆရာနဲ့ကင်းပြီး မနေရဘူးလို့ ဆိုလိုတာပဲ၊ ဘာလို့လဲဆိုတော့ သိပ်သိပ်သည်းသည်း ကျစ်ကျစ်လျစ်လျစ် ရှိနေကြအောင်လို့ပါပဲ၊ သာသနာဆိုတာ အဲလိုလာတာ။

ဒါပေမယ့် ဒီလို မှီခိုပြီး နေထိုင်ရတယ်ဆိုတဲ့ လိုက်နာမှုလေးတွေ အခုအတော်နည်းကုန်ပြီ၊ ဟိုတိုက် ဒီတိုက် ဟိုကျောင်း ဒီကျောင်းမှာ အတော်နည်းကုန်ပြီ၊ ဆရာ့ထံမှာ နိဿရည်းယူပြီး နေထိုင်ရတယ်ဆိုတဲ့ ကိစ္စကလေးတွေ မလုပ်ကြတော့ဘူး၊ တယ်-လွတ်လပ်ချင်ကြတာကိုး၊ အဲဒါ ကောင်းတဲ့လက္ခဏာမဟုတ်ဘူး၊ သာသနာတော်အတွက် စိုးရိမ်စရာပဲ။

ဝိနည်းမဟာဝါ ခန္ဓကမှာဖြင့် ဆရာက တပည့်အပေါ် မေတ္တာ ကရုဏာအပြည့်နဲ့ စောင့်ရှောက်ရမယ့် ဝတ္တရားတွေ, တပည့်ကလဲ ဆရာ့အပေါ် ပြန်လည်ပြုစုရမယ့် ဝတ္တရားတွေ အပြည့်အစုံပါပဲ၊ မြတ်စွာဘုရားက ပေါပြပညတ်တော်မူထားလိုက်တာ အပြည့်အစုံ, အပြန်အလှန် လိုက်နာကြတဲ့ ရှေးခေတ်ကို မှန်းပြီး ကြည်ညိုစရာကောင်းလိုက်တာ၊ အခုခေတ်နဲ့တော့ အတော်ကွာလှမ်းကုန်ပြီ။

ဒါ့ကြောင့် ဘုန်းကြီးက ဒီကျောင်းတိုက်မှာ အနေအထိုင် အဝတ်အစား ကျင့်သုံးမှုနဲ့ ပတ်သက်လို့ကတော့ ရှေးခေတ်နဲ့ တူနိုင်သမျှတူအောင် ပြန်ပြီးဖော်နေတာ၊ ဒီနေရာမှာတော့ ရာဇဝင်ဘီး နောက်ပြန်လိမ့်တယ်ဆိုဆို, ဘာဆိုဆို ရှေးခေတ် ကျင့်သုံးမှုလေးတွေက လိုက်လို့ မမီအောင် ကောင်းလွန်းလို့ အဲဒီရောက်အောင် ပြန်ရမှာပဲ။

## သဒ္ဓိဝိဟာရိက, အန္တေဝါသိက

ဤသို့လျှင် ရှေးယခင်ခေတ်နှင့် ယခုခေတ်ကို ထင်ဟပ်ပြ၍ ဆရာတော်က ဩဝါဒပေးနေသည်၊ မှန်ပါ၏၊ ယခုခေတ်တွင် ရဟန်းခံကိစ္စများ၌ မယူလျှင် မဖြစ်သော ဥပဇ္ဈာယ်ယူရခြင်းကိစ္စမျှလောက်သာ ရှိတော့သည်၊ နိဿရည်းယူမှုကိစ္စများကား ကွယ်ပျောက်သလောက်နီးပါး ရှိနေကြလေပြီ၊ အစဉ်အလာရှိသော ကျောင်းတိုက် အနည်းငယ်မျှသာ အလေ့အလာ ရှိတော့သည်၊ အချို့ရဟန်းငယ်များမှာ နိဿရည်းယူမှုကိစ္စကို ကိုယ်တိုင်လည်း မကျင့်သုံးဘူးကြ, သူများကျင့်သုံးသည်ကိုလည်း မမြင်ဘူးကြသဖြင့် နားမလည်အောင် ဖြစ်ကြရတော့သည်၊ ဤသို့ ဖြစ်လာသည်မှာ ကောင်းသောလက္ခဏာ မဟုတ်ချေ၊ အမှန်မှာ ဥပဇ္ဈာယ် နိဿရည်းနှစ်မျိုးတွင် ဥပဇ္ဈာယ်ဆရာနှင့်အတူ နေရခိုက်မှာ ဥပဇ္ဈာယ်ထံ ဥပဇ္ဈာယ်ယူ၍ နေကြရမည်၊ ဥပဇ္ဈာယ်နှင့် ကင်းကွာနေရသောအခါ နိဿရည်းဆရာထံမှာ နိဿရည်း ယူ၍ နေရမည် ဖြစ်၏၊ (ဥပဇ္ဈာယ်ယူရသောဆရာကို ဥပဇ္ဈာယ, တပည့်ကို “သဒ္ဓိဝိဟာရိက”ဟု ခေါ်ရသည်၊ နိဿရည်းယူရသော ဆရာကိုကား နိဿယာစရိယ, တပည့်ကို “အန္တေဝါသိက” ဟု ခေါ်ရသည်။)

**[ဆောင်] *ငါးဝါတွင်းဝယ်, ဥပဇ္ဈာယ်နှင့်, တစ်သွယ်**
**နိဿရည်း, တစ်နည်းနည်း, မှီမှီးနေထိုင်ရစမြဲ။**

ရဟန်းဖြစ်ပြီးသည်မှ စ၍ ငါးဝါအတွင်းမှာ ဆိုလျှင် ဥပဇ္ဈာယ်ဆရာကိုဖြစ်စေ (သို့မဟုတ်) (ဥပဇ္ဈာယ်နှင့်ကင်းကွာနေရသောအခါ) နိဿရည်းဆရာကိုဖြစ်စေ တစ်မျိုးမျိုးကို မှီခို၍ နေထိုင်ရစမြဲဖြစ်သည်။

ရှင်းပါဦးအံ့, ကျောင်းတိုက်တာ အာရာမ်တစ်ခုအတွင်း၌ မိမိဥပဇ္ဈာယ်ဆရာနှင့် အတူနေရခိုက်တွင်

---

* ဝိ, မဟာဝါပါဠိတော်, ဆ-၈၉၊

(ဥပဇ္ဈာယ်ယူထားပြီး ဖြစ်သဖြင့်) ယင်းဥပဇ္ဈာယ် နေထိုင်သော တိုက်တာမှ အခြားသော တိုက်တာ အာရာမ်သို့ စာသင်သွားခြင်းစသော အကြောင်းကိစ္စ တစ်ခုခုဖြင့် ကြာရှည်လေးမြင့်စွာ သွားရောက်နေထိုင်ရလျှင် ထိုနေရသောကျောင်းတိုက်၌ နိဿရည်းဆရာ အင်္ဂါမြောက်နိုင်သောပုဂ္ဂိုလ်ထံ နိဿရည်းခံယူ၍ နေရမည်။

ဤသို့လျှင် (ငါးဝါအတွင်းမှာ) ဥပဇ္ဈာယ်အမှီကိုဖြစ်စေ, နိဿရည်းအမှီကိုဖြစ်စေ တစ်ခုခုကို မှီခို၍ နေရမည်ဟု ဆိုလိုသည်။

## ဥပဇ္ဈာယ်ဆရာမှ အမှီငြိမ်းခြင်း (ပျက်ပြယ်ခြင်း)

၁။ ဥပဇ္ဈာယ်ဆရာသည် အရပ်တစ်ပါးသို့ အပြီးအပိုင် ဖဲခွာသွားခြင်း၊
၂။ တိတ္ထိဘောင်သို့ ကူးပြောင်းသွားခြင်း၊
၃။ လူထွက်သွားခြင်း၊
၄။ သေဆုံး (ပျံလွန်)တော်မူခြင်း၊
၅။ ဥပဇ္ဈာယ်ဆရာ၏ နှင်ထုတ်ခြင်းကို တပည့်ခံရခြင်း။

ဤငါးမျိုးတွင် တစ်မျိုးမျိုးသောအကြောင်းကြောင့် သဒ္ဓိဝိဟာရိကတပည့်မှာ ဥပဇ္ဈာယ်နှင့် စပ်သော အမှီပျက်ပြယ်သွားရ၏၊ အမှီငြိမ်းသွားရသည်။

**[ဆောင်] ဖဲ-ပြောင်း-ထွက်-သေ, နှင်ထုတ်ရေ့, ငြိမ်းလေ ဥပဇ္ဈာယ်အမှီတည်း။**

ထိုတွင် နံပါတ် (၂-၃-၄)ကြောင့် ဥပဇ္ဈာယ် အမှီပျက်ပြယ်သွားရလျှင် (ရဟန်းကလည်း ငါးဝါမပြည့်သေးလျှင်) နိဿရည်းဆရာ အင်္ဂါမြောက်သော အခြားသော ပုဂ္ဂိုလ်ထံ နေ့မဆိုင်း ညမဆိုင်းသွား၍ နိဿရည်းခံယူကာ နေရမည်, အလွတ်မနေရ, နေလျှင် အာပတ်သင့်၏။

[၁]နံပါတ်(၁)ကြောင့် ပျက်ပြည်ရာ၌ကား (က) ဥပဇ္ဈာယ်ဆရာက ပြန်မလာတော့အံ့ဟု အပြီးအပိုင် ဖဲခွာ ထွက်သွားခြင်းဆိုလျှင် ဥပဇ္ဈာယ်အမှီ လုံးဝ ပျက်ပြယ်သွားပြီဖြစ်၍ အခြားပုဂ္ဂိုလ်ထံ နိဿရည်း ခံယူ၍ နေရမည်၊ (ခ) ဥပဇ္ဈာယ်ဆရာက ပြန်လာမည့် ခေတ္တခဏသွားခြင်းမျိုးသာ ဖြစ်သည်ဆိုလျှင်ကား အခြားပုဂ္ဂိုလ်ထံ နိဿရည်းခံဖို့ မလို, စောင့်နေရမည်။ (စောင့်နေခိုက် အမှီမရှာဘဲနေသော်လည်း အာပတ်မသင့်။)

[၂]နံပါတ်(၅)ကြောင့် ပျက်ပြည်ရာ၌ ဥပဇ္ဈာယ်ဆရာကို အကြိမ်ကြိမ် တောင်းပန်ရ၏၊ အမျိုးမျိုးတောင်းပန်ရ၏၊ တောင်းပန်၍ကျေနပ်လျှင် ကောင်း၏၊ ဥပဇ္ဈာယ်ဆရာက တပည့်လိမ်မာသွားအောင် ညည်းထားပြီး အကြာကြီးကြာမှ ပြန်လည်ချီးမြှောက်အံ့၊ ထိုအချိန်မှစ၍ နေမြဲ ဥပဇ္ဈာယ်အမှီအတိုင်းပင်ဖြစ်၏၊ အကြိမ်ကြိမ် အမျိုးမျိုး တောင်းပန်၍ မရမှ (အမှီမရှိဘဲ မနေကောင်းသောကြောင့်) အခြားပုဂ္ဂိုလ်ထံ နိဿရည်းခံ၍ နေရမည်။

## [၃]နိဿရည်းဆရာမှ အမှီငြိမ်းခြင်း(ပျက်ပြယ်ခြင်း)

၁။ နိဿရည်းဆရာသည် အရပ်တစ်ပါးသို့ညဥ့်အိပ်ညဥ့်နေ ဖဲခွာထွက်သွားခြင်း၊
၂။ တိတ္ထိဘောင်သို့ ကူးပြောင်းသွားခြင်း၊
၃။ လူထွက်သွားခြင်း၊
၄။ သေဆုံး (ပျံလွန်)တော်မူခြင်း၊
၅။ နိဿရည်းဆရာ၏ နှင်ထုတ်ခြင်းကို တပည့်ခံရခြင်း၊
၆။ တပည့်သည် မိမိ၏ မူလဥပဇ္ဈာယ်ဆရာနှင့် ပြန်လည် ဆုံတွေ့မိခြင်း။

ဤ ၆ မျိုးတို့တွင် တစ်မျိုးမျိုးသောအကြောင်းကြောင့် အန္တေဝါသိကတပည့်မှာ နိဿရည်းအမှီ ပျက်ပြယ်သွားရ၏၊ အမှီငြိမ်းသွားရသည်။

အခြားတိုက်တာ၌ နိဿရည်းခံယူ၍နေစဉ် တပည့်ရှိရာသို့ ဥပဇ္ဈာယ်ဆရာလိုက်လာ၍ တွေ့ဆုံလျှင်သော်လည်းကောင်း (သို့မဟုတ်) ဥပဇ္ဈာယ်ရှိရာသို့ တပည့်က ပြန်သွား၍ တွေ့ဆုံမိသော်လည်းကောင်း, မြို့ရွာအတွင်း ဆွမ်းခံကြွရင်း တွေ့ဆုံလျှင်သော်လည်းကောင်း, စေတီ ပုထိုး ရှိခိုးလာကြရာ၌

---

(၁) ပက္ကန္တောတိ တမှာ အာဝါသာ ဝိပ္ပဝသိတုကာမော ပက္ကန္တော ဒိ သံ ဂတော။ (မဟာဝဂ္ဂ အဋ္ဌကထာ-၂၆၇) ဒိသံ ဂတောတိ တတ္ထ ခုရနိက္ခိတ္တဝါသော ဟုတွာ တိရော ဂါမံ ဂတော။ (ဝဇိရဗုဒ္ဓိဋီကာ-၄၁၉။)
(၂) သစေ ဥပဇ္ဈာယော စိရေန အနုဂ္ဂဟေတုကာမော ဟောတိ၊ တတော ပဋ္ဌာယ ဥပဇ္ဈာယောဝ နိဿယော။ (ဋီကာ-၄၁၉။)
(၃) ပါစိတျာဒိ-၄၁၊ ဘိက္ခုနောဝါဒဝဂ်၊ (နှာ-၅၇။)

တွေ့ဆုံလျှင်သော်လည်းကောင်း ဤသို့ စသည်ဖြင့် မူလဥပဇ္ဈာယ်ဆရာနှင့်တပည့် ပြန်လည်တွေ့ဆုံ မိခြင်း (သို့မဟုတ်) ဥပဇ္ဈာယ်ဆရာ၏ အသံကို ကြားခြင်းသည် နိဿရည်းအမှီ ပျက်ပြယ်ခြင်း၏ အကြောင်းတစ်ပါး ဖြစ်၏၊ ဘာ့ကြောင့်နည်း? ... နိဿရည်းဆရာနှင့်ဥပဇ္ဈာယ်ဆရာတွင် ဥပဇ္ဈာယ် ဆရာက သာ၍ ရင်းနှီးသောကြောင့် ဖြစ်သည်၊ မူလ ပင်မ (သာ၍ရင်းနှီးသော) ဥပဇ္ဈာယ်ဆရာ ပြန်၍ ပေါ်လာသောအခါ နောက်မှ တော်စပ်ရသော နိဿရည်း ဆရာက နောက်ဆုတ်ပေးရသည့် သဘောပင် ဖြစ်၏။

**[ဆောင်] ဖဲ-ပြောင်း-ထွက်-သေ, နှင်ထုတ်ရေနှင့်, တွေ့လေဥပဇ္ဈာယ်, ဤခြောက်သွယ်, ငြိမ်းဖွယ် နိဿရည်းအတွက်တည်း။**

ထိုတွင် (၁) နှင့် (၆)ကြောင့် ပျက်ပြယ်ရလျှင် နိဿရည်းဆရာနှင့် ပြန်၍ တွေ့သောအခါ အသစ် ထပ်မံ ပြန်ယူရသည်၊ (၂-၃-၄) အကြောင်းကြောင့် ပျက်ပြယ်ရလျှင် (ရဟန်းသည်လည်း ငါးဝါမပြည့် သေးပါက) နောက်ထပ် အခြားသော နိဿရည်း ဆရာထံ နိဿရည်းခံ၍ နေရမည်၊ ထို့ပြင် (၁)၌ အပြီးအပိုင်း ဖဲသွားခြင်းဆိုလျှင်လည်း နိဿရည်း ဆရာအသစ် ရှာ၍ ယူရမည်။

နံပါတ်(၅)၌ ဆရာက တပည့်ကို နှင်ထုတ်သော် လည်း တပည့်က ဆရာ့အပေါ်၌ တွယ်တာမှုရှိနေ လျှင်သော်လည်းကောင်း (သို့မဟုတ်) ဆရာက တပည့်အပေါ် တွယ်တာမှု ရှိနေလျှင်သော်လည်း ကောင်း နိဿရည်း မငြိမ်း, မပျက်ပြယ်၊ ဆရာရော တပည့်ပါ နှစ်ပါးလုံးတွယ်တာမှုပြတ်ကြမှ နိဿရည်း ငြိမ်းသည်၊ ထိုအခါ(ရဟန်းက ငါးဝါမပြည့်သေးလျှင်) အခြားသောဆရာထံ နိဿရည်းခံ၍ နေရမည်။

**မှတ်ချက်။** ။ နိဿရည်း ပျက်ပြယ်မှု ကိစ္စများ၌... ဆရာက အရပ်တစ်ပါးသို့ ညဉ့်အိပ် ညဉ့်နေသွားခြင်း စသည်ကြောင့်သာ ပျက်ပြယ်ရ သည် မဟုတ်သေး၊ တပည့်ဖြစ်သူတို့က ညဉ့်အိပ် ညဉ့်နေသွားခြင်း စသော အကြောင်းတို့ကြောင့် လည်း ယူထားသော အမှီနိဿရည်း ပျက်ပြယ်ရ မည်သာ၊ လိုရင်းမှာ နံနက်စော အရုဏ်တက်ချိန်၌ အာရာမ်တွင်းမှာ မရှိလျှင် ညဉ့်ပျက်သည်ဟု ဆိုရ၏၊ သို့ဖြစ်၍ နံနက်စောဆွမ်းခံကြွလေ့ရှိသော အချို့ မြို့ကြီးများ၌ နိဿရည်း ခဏ ခဏ မပျက်ရအောင် အရုဏ်တက်ပြီးမှ ကြွသင့်သည်ဟု အမိန့်ရှိ၏၊ အမရပူရ၌ကား နံနက်စော ဆွမ်းခံကြွလေ့ မရှိ ခရီး သွားခြင်းကြောင့်သာ ပျက်ပြယ်နိုင်သည်။

ထို့ကြောင့် အမရပူရ မဟာဂန္ဓာရုံတိုက်၌ ဆရာ တော်က ခရီးသွားရ၍ ပျက်ပြယ်ရလျှင်လည်း ပြန် လာသောအခါ နိဿရည်းအယူခိုင်းတတ်သည်၊ သို့မဟုတ် တပည့်တို့ ခရီးထွက်ရာမှ ပြန်ရောက်လာ သောအခါတွင်လည်း နိဿရည်း အယူခိုင်းတတ် သည်၊ ဤသို့လျှင် ရှေးအစဉ်အလာ ဓိနည်းဓလေ့ များ, ကျင့်သုံးမှုကလေးများ မပျောက်ကွယ်အောင် ဆရာတော်က... လက်တွေ့ ကျင့်သုံးပြခြင်းဖြင့် ထိန်းသိမ်းထားလေသည်။

## လွတ်လပ်ခွင့်ရနိုင်သောအချိန်

ဤသို့လျှင် ဥပဇ္ဈာယ်အမှီ(သို့မဟုတ်) နိဿရည်း အမှီကို တစ်သက်လုံး မှီခို၍ နေရမည်လော?... အဖြေ...ဖော်ပြလတ္တံ့သော အင်္ဂါရပ်များနှင့်မပြည့် စုံလျှင် ဝါတော် ၆၀ ရသူပင် ဖြစ်ပစေ၊ တစ်သက်လုံး ပင် စွမ်းနိုင်သူကို မှီခို၍ နေရပေမည်၊ အင်္ဂါရပ်များ နှင့် ပြည့်စုံလျှင်ကား (ဗျတ္တ ပဋိဗလဂုဏ် လောက်လုံ ပြီ ဖြစ်၍) ဥပဇ္ဈာယ်အမှီမှလည်းကောင်း, နိဿရည်း အမှီမှလည်းကောင်း လွတ်နိုင်ပြီ၊ ထိုမှနောက်၌ ဥပဇ္ဈာယ်, နိဿရည်း ယူဖွယ်မလိုတော့၊ အင်္ဂါရပ် တို့ကား...

*(၁) ငါးဝါ ရရှိခြင်း၊ (၂) ဒွေမာတိကာကို အနက် အဓိပ္ပာယ်နှင့်တကွ သိခြင်း၊ (၃) ဓမ္မပဒစသော သုတ္တန်တို့မှ လေးဘာဏဝါရလောက်ရခြင်း၊ (၄) အမ္ဗဋ္ဌသုတ်နှင့် အလားတူသုတ္တန်စကားရပ်ကိုရခြင်း၊

* ပါစိတ်ျာဒိ-ဋ္ဌ, အဂ်ကျေနောဝါဓဝဂ်၊ နှာ-၅၄၊

(၅) ဆွမ်းတရားစသည် ဟောဖို့ရာ ဝတ္ထုတရား သုံးပုဒ်လောက်ရခြင်း၊ (၆) ကမ္မဋ္ဌာန်းဘာဝနာ စသည်ကို သိခြင်း၊ (၇) ဥပုသ် ပဝါရဏာစသော ကံကြီး ကံငယ်ကို နားလည်ခြင်းများ ဖြစ်၏။

[ဆောင်] ငါးဝါပြည့်ဘိ, ဖွေမာတိကာ, သုတ်လေး ဘာဏဝါရ,အမ္ဗဋ္ဌတု,ဝတ္ထုစကား,တရား သုံးပုဒ်, အားထုတ်ဖို့ရာ, ဘာဝနာနှင့်, ကမ္မာကမ္မ, စုနစ်ဝ, နိဿယ လွတ်နိုင်ပြီ။

## မဟာဂန္ဓာရုံတိုက် သိမ်ထပ်ရသောအလေ့

"ဟေး-နက်ဖြန် ဆရာတော်ကြီး ကြွလာမတဲ့၊ တခြားမှာ ရဟန်းဖြစ်ခဲ့သူတွေသူတွေ သိမ်ထပ်ရမယ် နော်, အသင့်ပြင်ထားကြ။ ပြီးတော့ တစ်နေ့လျှင် နှစ်ပါး သုံးပါးလောက်ပဲ စီစဉ်ကြ, သိပ်များနေလို့ ဆရာတော်ကြီး ပင်ပန်းနေ ဦးမယ်။"

## တပည့်ကြီးကို ချီးမြှောက်

အထက်ပါအတိုင်း သတိပေးနေသောပုဂ္ဂိုလ်ကား ဆရာတော် အရှင်ဇနကာဘိဝံသပင် ဖြစ်ပါသည်၊ "ဆရာတော်ကြီး"ဟူ၍ တလေးတစား အရေးထား၍ ဝေါဟာရ အတင်ခံရသော ဆရာတော်ကား အခြားသူ မဟုတ်ပါ၊ (နောင်တစ်ချိန်တွင် ဒသမမြောက် ရွှေကျင်သာသနာပိုင်ဆရာတော်ကြီး ဖြစ်လာမည့်) သူ၏ ကျေးဇူးရှင် မြောင်းမြဆရာတော်ဘုရားပင် ဖြစ်ပါသည်၊ မြောင်းမြဆရာတော်ဘုရားသည် မြောင်းမြမှာ သီတင်းသုံးတော်မူစဉ်ကပင် အထက် အညာသို့ သာသနာရေးကိစ္စရှိ၍ ကြွလာသောအခါတွင်လည်းကောင်း, နောင်တစ်ချိန်တွင် မန္တလေး မဟာဝိသုဒ္ဓါရုံတိုက်၌ သီတင်းသုံးတော်မူစဉ် အလုပ်ကိစ္စနည်းပါး၍ အားလပ်ခွင့်ရသော အခါတွင်လည်းကောင်း အမရပူရ (တောင်မြို့) ဂန္ဓာရုံတိုက်သို့ ရံဖန်ရံခါ ကြွကြွလာတတ်သည်၊ ရည်ရွယ်ချက်ကား သာသနာတွင် အကျိုးများလှသော တပည့်ကြီးအရှင်ဇနကာဘိဝံသကို ချီးမြှောက်အားပေးတော်မူလိုသောကြောင့် ဖြစ်၏၊ တပည့်ဖြစ်သူ အရှင်ဇနကာဘိဝံသကလည်း ဆရာသမားလေးစားသူ, အလွန်တန်ဖိုးထားသူ ဖြစ်သည်။

တစ်ခါတစ်ရံမှ ကြုံတောင့်ကြုံခဲ ကြွကြွလာတတ်သော ဆရာတော်ကြီးကို သူစွမ်းနိုင်သမျှ ပြုစုရှာ၏၊ ဆရာတော်ကြီးအတွက် အနေအထိုင် ချမ်းသာအောင် သူကိုယ်တိုင် စီမံပေး၏၊ ရိုသေအပ်, မြတ်နိုးအပ် သီလ သမာဓိနှင့် စပ်၍ ကျော်ထီးတန္တု အလေးပြုအပ်သော ဆရာတော်ကြီး ဖြစ်၍လည်း တလေးတစား တန်ဖိုးထားရခြင်း ဖြစ်ပါသည်၊ ထို့ကြောင့် ဆရာတော်ကြီး ရောက်လာခိုက်တွင် မိမိတပည့်တို့ကို သိက္ခာ အထပ်ခိုင်းလေ့ရှိခြင်း ဖြစ်ပေသည်။

## သိက္ခာထပ်ခြင်း (သိမ်ထပ်ခြင်း)

"သိက္ခာထပ်"ဟူသည် ရဟန်းထပ်ခံခြင်းကို ဆိုလိုသည်၊ ဤသည်ကိုပင် "သိမ်ထပ်သည်"ဟူ၍လည်း သုံးနှုန်းကြသေး၏၊ ဆရာတော် အရှင်ဇနကာဘိဝံသကား လုပ်ငန်းတိုင်းတွင် အလွန်စေ့စပ်မှု ကျေနပ်သူ ဖြစ်၏၊ သာမဏေငယ် အရွယ် အလတ်တို့မှစ၍ ကျွေးမွေးစောင့်ရှောက် ပြုပြင်လာခဲ့ရသော မိမိ၏ တပည့်များ (အသက်စေ့၍) တခြားဒေသတွင် ရဟန်းခံခွင့်ကြုံရသော် မိမိ၏ ရှေ့၌ မဟုတ်သဖြင့် သူ အားမရတတ်သေး၊ သူ၏ ရှေ့မှောက်တွင် သူကိုယ်တိုင် ပီပီသသ ကမ္မဝါဖတ်၍ ပေးရမှ အားရကျေနပ်သော ဆရာတော် ဖြစ်သည်၊ (သို့မဟုတ်) သူ့ကျေးဇူးရှင် ဆရာတော်ကြီးကိုယ်တိုင် ဖတ်ပေးမှ

ကျေနပ်သောဆရာတော် ဖြစ်၏၊ ထို့ကြောင့် သူကိုယ်တိုင် ကမ္မဝါဖတ်၍မပေးရသေးသော တပည့်ရဟန်းငယ်များကို သူ့ဆရာတော်ကြီး ကြွလာခိုက်တွင် သိမ်ထပ်ဖို့ရန် လှုံ့ဆော်နေခြင်း ဖြစ်သည်။

သိမ်ထပ်သည် (ထပ်မံ၍ရဟန်းခံသည်)ဆိုသော်လည်း ကြီးကြီးကျယ်ကျယ် ခမ်းခမ်းနားနား စီစဉ်ရသည် မဟုတ်ပါ၊ မိမိတို့ ဆွမ်းခံနေကျ ကိုယ်ပိုင်သပိတ်ကို သိမ်ထဲသို့ ပွေ့ယူလာပြီး ဆရာတော်ကြီးနားတွင် ချရ၏၊ ထို့ပြင် ပထမရဟန်းခံစဉ်က ပါခဲ့ရသော နှစ်ထပ်သင်္ကန်းကြီးကိုလည်း ယူလာပြီးလျှင် သပိတ်ပေါ် တင်ရ၏၊ သင်းပိုင် ကေသီတို့ကား ခါးမှာ ဝတ်မြဲ ကိုယ်မှာ ရန်းမြဲအတိုင်း ဖြစ်သည်၊ အမွှမ်းအမံ အပြင်အဆင်တို့မှာ ဤမျှသာတည်း၊ ဒကာ ဒကာမဆိုသော်လည်း တစ်ယောက်မျှ မပါပေ၊ ထို့နောက် ကျောင်းတိုက်တွင်ရှိသော ရဟန်းဟူသမျှ (ဗဟုသုတဖြစ် မြင်ရ တွေ့ရ သြဝါဒခံယူဖို့ရန်) အကုန်လာရ၏၊ သံဃာစုံသောအခါ မြောင်းမြဆရာတော်ကြီးက (ဆရာတော်ကြီးတစ်ပါးတည်း) ဉတ္တိစတုတ္ထဥပသမ္ပဒကမ္မဝါစာကို ပီပီသသ ဖြည်းဖြည်း အေးအေး တစ်ခေါက်ဖတ်၍ သမုတ်လိုက်ခြင်းသာတည်း၊ တစ်ပါးအတွက် ပြီးသွား၏။

နောက်တစ်ပါးအတွက်လည်း ဤနည်းအတိုင်းပင် ဖတ်လိုက်သည်၊ သုံးပါးလောက် သိမ်ထပ်မည့်သူရှိနေပါက ကြားတွင် စကားစမြည် ပြောရင်း ခေတ္တနားတတ်သည်၊ ပြီးမှ ဆက်လက် ဖတ်တော်မူတတ်၏၊ သိမ်ထပ်မည့်သူများ ထို့ထက်များနေလျှင်ကား နောက်နေ့များတွင် ဆက်လက် ရက်ချိန်းပေးလိုက်သည်။

## ဝိနည်းဆိုင်ရာဗဟုသုတပြော

ဤကဲ့သို့သောအခါမျိုးတွင် မြောင်းမြဆရာတော်ကြီးက ဆိုင်ရာ ဆိုင်ရာ အကြောင်း စပ်ရာ စပ်ရာ ဝိနည်းဗဟုသုတများကို သံဃာ့ပရိသတ်အား ဟောကြားပြသတတ်၏၊ တစ်ခါတလေ ပြုံးပြုံးပြုံးပြုံးနှင့် မိန့်တတ်၏၊ တစ်ခါတလေတွင်ကား အသံဝါကြီးဖြင့် စူးစူးဝါးဝါး အော်တတ် ငေါက်တတ်သည်၊ ထိုအခါ ကောင်းကင်တစ်ခွင်လုံး တုန်ခါသွားအောင် မိုးကြီးထစ်သံကဲ့သို့ ထင်လိုက်ရသည်၊ သိမ်ကျောင်းခန်းမကြီးတစ်ခုလုံးလည်း တိတ်ဆိတ်သွားတော့၏၊ ခြင်္သေ့မင်းကြီး ဟိန်းဟောက်နေ၍ ယုံသူငယ်လေးများ ကုပ်နေရသော တောအုပ်မြိုင်ကြီးပမာ ဖြစ်နေတော့သည်၊ တုတ်တုတ်မျှ မလှုပ်ဝံ့ကြ၊ မြောင်းမြဆရာတော်ကြီးသည် ဂန္ဓာရုံသံဃာများကို သူ့တပည့်၏ တပည့်များ (ဝါ) သူ့မြေးများ ဖြစ်သော်လည်း သူ့တပည့်အရင်းအချာများကဲ့သို့ပင် သဘောထား၍ ဟောကြားစရာရှိသမျှ အကုန်ဖွင့်ဟ၍ ပြောတတ် ဟောတတ်၏၊ ဆူစရာရှိလျှင် ချက်ချင်း လက်ငင်း၊ မန်စရာရှိလျှင်လည်း အကြွေးမထား၊ ဘွင်းဘွင်းကြီး မိန့်ကြားတတ်၏၊

ဤသည်ကိုပင် ဆူနိုင် မန်နိုင်လောက်အောင် သီလ သမာဓိ ပညာ ဂုဏ်ဝါကြီးမားတော်မူသဖြင့် လေးစားရ ကြည်ညိုရ မြတ်နိုးရပါတော့သည်။

ဤကဲ့သို့ သိမ်ထပ်ကိစ္စများတွင် ကမ္မဝါဖတ်မပေးမီ သိမ်ထပ်မည့်သူကို ဆရာတော်ကြီးက "ယခုသင့်ရဲ့ ဥပဇ္ဈာယ်ဆရာ အသက်ထင်ရှား ရှိသေးသလား၊ မရှိတော့ဘူးလား"ဟု မေးလေ့ရှိသည်၊ "ဥပဇ္ဈာယ်ဆရာ အသက်ထင်ရှားရှိပါသေးသည်"ဟု အဖြေရလျှင် "အိမ်း-အဲဒီ ဥပဇ္ဈာယ်ဆရာနဲ့ပဲ ကမ္မဝါဖတ်ပေးမယ်"ဟု မိန့်ပေ၏၊ "ယခုအခါ တပည့်တော်ရဲ့ ဥပဇ္ဈာယ်ဆရာ မရှိတော့ပါ၊ ပျံလွန်တော်မူပါပြီ၊ (သို့မဟုတ်) လူထွက်သွားပါပြီ"ဟု ဆိုလျှင်ကား "အိမ်း-ဒီလိုဆိုလျှင်တော့ သင့်တော်ရာ တစ်ပါးပါးကို ဥပဇ္ဈာယ်အဖြစ် ခံရမယ်"ဟု အမိန့်ပေး၍ တစ်ပါးပါးထံ ယူစေရ၏၊ ရံခါ ကိုယ်တော်တိုင် ဥပဇ္ဈာယ်အဖြစ် ချီးမြှောက်တော်မူ၏၊ ရံခါ တောင်မြို့ ဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသထံ ဥပဇ္ဈာယ်ယူစေ၏၊ ပြီးမှ ထိုဥပဇ္ဈာယ်ဖြင့် ကမ္မဝါဖတ်တော်မူသည်။

## ဥပဇ္ဈာယ်ဆရာက မရှိ မဖြစ်လို့

ဤကိစ္စကလေးများနှင့်ပတ်သက်၍ မြောင်းမြ ဆရာတော်ကြီးက သံယာ့ပရိသတ်အား ကြားဖြတ် ဩဝါဒအတိုအထွာကလေးများ ပေး၍ ပေး၍ သွားတတ်၏၊ "အခုလို ဥပဇ္ဈာယ် အယူခိုင်းနေရတာက မပါ မပြီးလို့ ခိုင်းနေရတာ, ရဟန်းခံတဲ့အခါ ဥပဇ္ဈာယ် မရှိလို့ မဖြစ်ဘူး၊ ရှိကို ရှိရမယ် *"န ဘိက္ခဝေ အနုပဇ္ဈာယကော ဥပသမ္ပာဒေတဗ္ဗော"တဲ့၊ ဥပဇ္ဈာယ်မရှိတဲ့သူကို ရဟန်းခံမပေးရဘူးတဲ့၊ မဟာဝါခန္ဓကမှာ ဘုရားဟောထားတယ်၊ ဒါကို သတိပြုပါ။"

တချို့မှာ ဥပဇ္ဈာယ် ပျံလွန်တော်မူသွားတယ်၊ လူထွက်သွားတယ်၊ အဲဒီနောက် အခုလို သိမ်ထပ်တယ်, ရဟန်းထပ်ခံတယ်ဆိုတဲ့ ကိစ္စတွေ ပေါ်လာတာ "ဥပဇ္ဈာယ် မရှိတော့ဘူး" ဖြေတယ်၊ အဲဒါကို တချို့ ဆရာတော်တွေက "ဥပဇ္ဈာယ်ဆိုတာ နောက်ထပ် ယူလို့ရတာမှ မဟုတ်ဘဲ"တဲ့၊ အဲလိုပြောပြီး ဥပဇ္ဈာယ် မပါဘဲ ကမ္မဝါ ဖတ်ကြတော့တာပဲ။

ဘယ်ဟုတ်လိမ့်မလဲ၊ ဘုရားဟောကြီးလဲ တိုက်ရိုက် အရှိသားနဲ့၊ "ဥပဇ္ဈာယ်မရှိတဲ့သူကို ရဟန်းခံမပေးရပါဘူး"တဲ့ ဆိုမှ၊ ပြီးတော့ ကမ္မဝါစာထဲမှာလဲ "အာယသ္မတော တိဿဿ"တို့, "အာယသ္မတာ တိဿေန ဥပဇ္ဈာယေန" တို့နဲ့ သုံးသပ်ထားတာပဲ၊ ဥပဇ္ဈာယ်မရှိရင် အဲဒီ စာသားတွေက ဘယ်သူ့ကို ရည်ညွှန်းမလဲ, အပိုစာသားတွေ ဖြစ်ကုန်မှာပေါ့၊

ဒါကြောင့် ကမ္မဝါစာထဲမှာ အဲဒီ စာသားတွေ ပါတာကို ထောက်ရင်ပဲ ဥပဇ္ဈာယ်ဆိုတာ ရှိရမယ်လို့ သိသာနေတယ်၊ အဲဒါ ကိုယ်တော်တို့ မှတ်ထားကြ။

ဟိုး ငါးဝါအတွင်း နိဿရည်းယူရတဲ့အချိန်မှာ "နိဿရည်းပျက်ရင် ပြန်ယူရတယ်, ဥပဇ္ဈာယ်က ပြန်ယူရတယ်လို့ မရှိဘူး"ဆိုတာနဲ့ သွားမရောနဲ့၊ အဲဒါက တခြား, ဒီမှာက တစ်မျိုး။"

## ဥပဇ္ဈာယ်ဆရာ အနီး ရှိ/မရှိ

"ပြီးတော့ ဥပဇ္ဈာယ်ဆရာက ရှိတော့ ရှိတယ်၊ အဝေးမှာ ဖြစ်နေတယ်၊ ဒီကိုယ်တော်က သူတို့ ရပ်ရွာက သူတို့ဆရာဘုန်းကြီးကို ဥပဇ္ဈာယ်ယူပြီး ရဟန်းဖြစ်လာခဲ့တာ၊ အခု ကမ္မဝါဖတ်တဲ့အခါ အဲဒီ ဥပဇ္ဈာယ်က ဒီသိမ်ထဲမှာ မပါဘူး၊ အဝေးမှာ ရှိနေတယ်၊ ဘယ့်နှယ်လဲ, ဖြစ်ပါ့မလား, လုပ်ကောင်းပါ့မလား၊ ကဲ-ဖြေကြစမ်းပါ" ဆရာတော်ကြီးသည် ဤပြဿနာကို သူကိုယ်တိုင် ပြန်ပြီး ဖြေပြလို၍ မေးသော (ကထေတု ကမျတာ ပုစ္ဆာ) မေးခွန်းမျိုးဖြင့် မေးနေ၏၊ ဤသည်ကို အချို့က သိ၍ အချို့က မသိသဖြင့် မည်သူမျှ မဖြေဘဲ ငြိမ်နေကြသည်။

ထိုအခါ ဆရာတော်ကြီးက သူကိုယ်တိုင်ပင် ဆက်လက်ဖြေတော်မူ၏၊ တည်ငြိမ်လေးနက်သော အသံ, အောင်မြင်ပေါက်မြောက်သောအသံဝါကြီးဖြင့် (နှုတ်ခမ်းကို မပွင့်တပွင့်ထားကာ) လိုဏ်သံပါစေ၍ "ဖြစ်ပါတယ်, လုပ်ကောင်းပါတယ်" ဤသို့ ဖြေတော်မူသည်။

"ဘာလို့လဲဆိုတော့" ဆရာတော်ကြီးသည် "ဖြစ်ပါတယ်, လုပ်ကောင်းပါတယ်"တွင် ရပ်မထား၊ ခိုင်လုံအောင် အကြောင်းပြကိုပါ ပြောလိုသေး၍ ရှေ့ဆက်တက်လာပြန်သည်၊ "ကမ္မဝါစာမှာ ကြည့်ပါလား" "သုဏာတု မေ ဘန္တေ သံဃော၊ အယံ နာဂေါ အာယသ္မတော တိဿဿ ဥပသမ္ပဒါပေက္ခော"တဲ့၊ ရဟန်းလောင်းကိုတော့ "အယံ နာဂေါ"လို့ သုံးနှုန်းထားတယ်၊ "အယံ"ပုဒ်က အနီးအနားကိုပြတယ်၊ သိမ်ထဲမှာ အနီးအနား ဟတ္ထပါသ် အတွင်းမှာ ရှိရမယ်လို့ ဆိုလိုတယ်၊ နာဂေါကို အနီးပြပုဒ် "အယံ"နဲ့ တွဲထားတယ်။

ဒါကြောင့် ရဟန်းလောင်း နာဂကတော့ ကမ္မဝါဖတ်တဲ့အခါမှာ အနီးအနား ဟတ္ထပါသ်အတွင်းမှာ ရှိရမှာပဲ။

အဲ-ဥပဇ္ဈာယ်ကျတော့ စောစောကပြောခဲ့တဲ့ ပါဠိပါပဲ, "အာယသ္မတော တိဿဿ-အရှင်တိဿ၏"လို့ သာမန်ပဲ ဆိုတယ်။

---

* မဟာဝါပါဠိ, ဆဋ္ဌ, နှာ-၁၂၄၊

"အာယသ္မတာ တိဿေန ဥပဇ္ဈာယေန - ဥပဇ္ဈာယ်ဖြစ်သော အရှင်တိဿနှင့်"လို့ သာမန်ပါပဲ၊ အနီးကို ဟောတဲ့ "ဣမ"သဒ္ဒါတွေ ဘာတွေ မပါပါဘူး၊ အနီးပုဒ်တွေနဲ့တွဲပြီး မပြပါဘူး၊ အဲဒါကြောင့် ဥပဇ္ဈာယ်ဆရာကျတော့ အနီးမှာ မရှိပေမယ့် (အဝေးမှာ ရှိနေပေမယ့်) "ဖြစ်ပါတယ်, လုပ်ကောင်းပါတယ်"လို့ ပြောခဲ့တာ၊ ဆရာတော်ကြီး၏ အဆုံးအဖြတ်သည် ရှင်းလှ၏၊ ယုတ္တိသဘာဝလည်း ကျလှ၏၊ အစဉ်အမြဲ ဘဝင်စွဲ သွားအောင် ကျေနပ်မှုကို အပြည့်အဝ ပေးတော့ သည်။

## သက်န်းသုံးထည် ပါမှတဲ့လား

"ပြီးတော့ ပြောတတ်ကြသေးတယ်၊ အခုလို ရဟန်းခံတဲ့အခါမှာ တိစီဝရိက် သုံးထည်, တိစီဝရိက် သုံးထည်နဲ့ တယ်ပြောကြ၊ အဲဒီ သုံးထည်စုံမှ ရဟန်းခံကောင်းသလိုလို ဘုန်းကြီးတွေ တယ်ပြောကြတယ်၊ ဘုန်းကြီးတွေကပြောတော့ လူတွေကလဲ အဲလိုပင် ထင်ကြတာပေါ့၊ ဘယ်ဟုတ်လိမ့်မှာလဲ၊ အခုပဲ တိစီဝရိက်စုံအောင် သက်န်းကြီးပါ ယူလာပြီး အနားမှာ လာချထားတယ်၊ မပါလဲ ဖြစ်တာပဲ၊ ရဟန်းခံတော့ အနုဝိဇ္ဇကပုဂ္ဂိုလ်က မေးတာ ကြည့်ပါလား၊ "ပရိပုဏ္ဏံ တေ ပတ္တစီဝရံ = သင့်မှာ သပိတ်နဲ့သက်န်း ပြည့်စုံပြီလား"တဲ့၊ ဒါပဲ မေးတယ်၊ "ပြည့်စုံပါပြီ ဘုရား"တဲ့၊ ဒါဆိုရင် ရဟန်းခံနိုင်ပြီ၊ ယပ်တောင်တို့, ခါးပန်းကြိုးတို့, ရေစစ်တို့, သားရေနွယ်တို့တောင် မပါဘူး, မေးတာ၊ ဒါတွေက အရေးမှမကြီးဘဲ။"

"ပတ္တစီဝရံ=သပိတ်နဲ့သက်န်း"ဆိုတဲ့နေရာမှာ "သုံးထည်"ရယ်လို့ မဆိုပါဘူး၊ သပိတ်နဲ့သက်န်းပဲ မေးလိုက်တာ၊ အင်မတန် အရေးကြီးတယ်၊ ဒါ စဉ်းစားကြပါ၊ သပိတ်နဲ့သက်န်း ရှိပြီးသားပဲ၊ အဲဒီမှာ သက်န်းက သင်းပိုင်နဲ့ ကေသီပဲ ရှိတယ်၊ နှစ်ထပ်သက်န်းကြီး မရှိဘူးဆိုပါတော့၊ သင်းပိုင်နဲ့ကေသီရယ်, သပိတ်ရယ်ရှိ ပြီးတာပဲ၊ ရဟန်းခံလို့ ရပြီ၊ တစ်ခါ ကေသီမရှိဘူးဆိုပါတော့, နှစ်ထပ်သက်န်းကြီးတော့ ရှိတယ်၊ အဲ-သင်းပိုင်နဲ့ နှစ်ထပ်သက်န်းကြီးရယ်, သပိတ်ရယ်ရှိ၊ ဒါလဲ ပြီးတာပဲ၊ အဲဒါ လိုရင်းပဲ။

ကမ္မဝါစာထဲလဲ ကြည့်ပါလား၊ "ပရိပုဏ္ဏဿ ပတ္တစီဝရံ"တဲ့၊ ရဟန်းလောင်းမှာ သပိတ်နဲ့သက်န်း ပြည့်စုံနေပါပြီတဲ့၊ ဒါလောက်ပဲ ဆိုပါတယ်၊... တိစီဝရိတ် သုံးထည်ရယ်လို့ မဆို ါဘူး၊ ဒါကို သတိရှိကြပါ။

ခုကာလ ဘုန်းကြီးတွေ ရပေါက် ရကိန်းကတော့ ပေါ်ပဲ့၊ ပရိက္ခရာစုံအောင်လို့တဲ့၊ ရဟန်းခံခါနီး ဒကာတွေနဲ့ ပရိက္ခရာတွေ လိုက်ဝယ်နေကြ, သက်န်းကြီးကိုလဲ လိုက်ရှာနေရတာပဲ၊ ဈေးကလဲ အင်မတန်ကြီးပါဘိ၊ ခက်လည်း ခက်ပါဘိနဲ့၊ ဘုန်းကြီးတွေကလဲ သိရဲ့သားနဲ့ မြဲနေတာလား၊ မသိလို့ဘဲ မပြောဘဲ နေတာလား မသိပါဘူး၊ "သက်န်းကြီး မပါလဲ ဖြစ်ပါတယ်"ဆိုတဲ့ စကား ပြောမယ့်သူ အင်မတန် ရှားတာကပဲ၊ မပါရင်လဲ ဖြစ်တဲ့ဥစ္စာ၊ မရမက လိုက်ပြီးတော့ ရှာနေကြတာပဲ, တယ် ခက်တယ်။

## အငှားနဲ့တော့ မဖြစ်ဘူးနော

"ဘုန်းကြီးတို့ မြန်မာနိုင်ငံမှာ ပရိက္ခရာရှစ်ပါး, ပရိက္ခရာရှစ်ပါးနဲ့ အားကြီးပြောကြတယ်၊ ရဟန်းခံတဲ့ နေရာမှာ ပရိက္ခရာရှစ်ပါးလုံး မလိုပါဘူး၊ ပရိက္ခရာ ဆိုတာ "အသုံးအဆောင်"လို့ အဓိပ္ပာယ်ရတယ်၊ ရဟန်းတော်များအတွက် အနည်းဆုံး အကျဉ်းဆုံး ပိုင်ဆိုင်ခွင့်ရှိတဲ့ အသုံးအဆောင်ပစ္စည်းကိုသာ ပြောတာ၊ ဒါတွေ စုံမှ ရဟန်းခံနိုင်တယ်လို့ ဆိုလိုတာ မဟုတ်ပါဘူး၊ ရဟန်းခံခါနီး မေးတာတောင် ကြည့်ပါလား၊ လိုရင်းဖြစ်တဲ့ "သပိတ် သက်န်းပဲ" မေးတယ်၊ "ပရိပုဏ္ဏံ တေ ပတ္တစီဝရံ"တဲ့၊ ဒါပဲ မေးတယ်၊ တခြား ပဲခွပ်တို့, အပ်တို့, ရေစစ်တို့, ခါးပန်းကြိုးတို့ကိုတောင် မမေးဘူး၊ အရေးမကြီးလို့၊ ဒါကို သတိရှိကြပါ၊ သက်န်းလဲ တိစီဝရိတ်သုံးထည်လို့ မဆိုပါဘူး၊ သက်န်းပဲ သာမန်လောက် မေးတာ၊ ဒါ့ကြောင့် ခါးဝတ်ဖို့နဲ့ ကိုယ်မှာ ရုံဖို့ ကိုယ်မှာ ရန်းဖို့ ရှိရင် ပြီးတာပဲ၊ အဲဒါ ပရိက္ခရာရှစ်ပါး ပါမှ ပါမှနဲ့

ပြောနေကြတယ်၊ ပါတာကို အပြစ်ရှိတယ်လို့ မပြောလိုပါဘူး၊ "ပါမှဖြစ်တယ်"ဆိုတဲ့ အယူအဆကို ပြောနေတာ၊ အမှန်က သင်္ကန်းကြီး ပါပါ မပါပါ ခါးဝတ်နဲ့ ရုံဖို့ ရန်းဖို့ပါ ပြီးတာပဲ။

ဘုန်းကြီးတို့ ငယ်ငယ်တုန်းကပေါ့၊ ၇ ဝါလောက်တုန်းက ဆရာတော်ကြီးတစ်ပါးက ဘုန်းကြီးကို မေးတယ်, သံဃာထဲမှာ၊ "သင်္ကန်းကြီးမပါဘဲနဲ့ ရဟန်းခံလို့ ဖြစ်တယ်ဆိုတာ ဟုတ်သလား"တဲ့ မေးတယ်၊ "ဟုတ်ပါတယ်"လို့ပဲ ဖြေလိုက်တယ်၊ "ဘာကြောင့်လဲ" တဲ့, သူကအကြောင်းပြကိုမေးနေပြန်တယ်၊ "သင်္ကန်းကြီးပါမှ ရယ်လို့ အထူး မိန့်မှတ်တာမှ မဟုတ်ဘဲ, သင်္ကန်းကြီးဆိုတာက အေးတဲ့ရာသီမှာ အအေးဒဏ်ကို ကာကွယ်နိုင်ဖို့သာ ခွင့်ပြုတာပဲ"လို့ ဖြေလိုက်တော့ သူသဘောမကျဘူး, မကျေနပ်ဘူး၊ မကျေနပ်ပေမယ့် ဘုန်းကြီးက ပြန်မငြင်းပါဘူး၊ ဆရာတော်ကြီးလဲဖြစ်, သံဃာထဲလဲ မေးတာကိုး၊ ငြင်းရင်လဲ ဘုန်းကြီးက နိုင်မှာ အမှန်ပဲ၊ ဒါ သို့သော် မငြင်းတော့ပါဘူး, အလျှော့ပေးလိုက်ပါတယ်။

အဲ-သပိတ်နဲ့သင်္ကန်းဆိုတဲ့နေရာမှာ အငှားနဲ့တော့ မဖြစ်ဘူးနော, ဒါက တိုက်ရိုက်ဟန့်တားထားတယ်၊ ဘုရားက "န ဘိက္ခဝေ ယာစိတကေန ပတ္တစီဝရေန ဥပသမ္ပာဒေတဗ္ဗော၊ ယော ဥပသမ္ပာဒေယျ အာပတ္တိ ဒုက္ကဋဿ"(၁)တဲ့၊ ခေတ္တ ငှားရမ်းထားတဲ့ သပိတ် သင်္ကန်းနဲ့တော့ ရဟန်းပြုမပေးရတဲ့၊ ဒါကတော့ ကိုယ်ပိုင် သပိတ်တို့, ကိုယ်ပိုင် သင်္ကန်းတို့ ဖြစ်စေရမယ်။

ဘာလို့လဲဆိုတော့ ... ဟိုမှာ ကိုယ်ပိုင် သပိတ် သင်္ကန်း မဟုတ်ဘဲနဲ့ ငှားတဲ့ ရမ်းတဲ့ သပိတ်သင်္ကန်းနဲ့ ရဟန်းခံမိလို့, ရဟန်းခံပြီးတော့ သပိတ်သင်္ကန်းရှင်တွေက ပြန်ယူကုန်ရော၊ အဲဒီတွင် ကိုယ်တုံးလုံးနဲ့ အရပ်ထဲသွား, လက်နဲ့ဆွမ်းခံစား, တစ်လုတ်စာ ရတိုင်း တစ်ခါစား, လမ်းလျှောက်ရင်းစားလုပ်နေလို့ ဘုရားသိတော့ ပညတ်ရတာ၊ "ကိုယ်ပိုင်သပိတ် သင်္ကန်း ရှိပါစေ"တဲ့။

## ဘုရားကိုယ်တော်တိုင် စမ်းသပ်တော်မူ [၂]
### သင်္ကန်းသုံးထည်ဖြစ်ပေါ်လာပုံ

တစ်နေ့သောအခါတွင် ရှင်တော်ဗုဒ္ဓ ရာဇဂြိုဟ်မှ ဝေသာလီသို့ အကြွ လမ်းခရီးအကြား၌ များစွာသော တပည့်ရဟန်းတို့နှင့် ရင်ဆိုင်မိ၏၊ ရဟန်းတို့သည် အပိုအလျှံသင်္ကန်းတို့ကို အထုပ်ကြီး အထုပ်ငယ်တို့ဖြင့် သယ်ကာ ပိုးကာ လှည့်လည်သွားလာနေကြကုန်၏၊ ရှင်တော်ဗုဒ္ဓက "ဤရဟန်းတို့သည် သင်္ကန်းတို့ဖြင့် ပေါများအောင် အားထုတ်နေကြကုန်ဘိ၏၊ သင်္ကန်းအတွက် လွန်ကဲမှု မဖက်အောင် သင့်တော်ရုံမျှ အကန့်အသတ်ထားမှ ဖြစ်ပေတော့မည်" ဟု ကြံစည်တော်မူ၏၊ ပြီးလျှင် ကိုယ်တော်တိုင် စမ်းသပ်တော်မူသည်။

မည်သို့ စမ်းသပ်သနည်း?...

ဆောင်းတွင်းသမယ အေးပေ့ဆိုသော (တပို့တွဲနှင့် တပေါင်းလအကြား ၈ ရက်)ကာလ ဆီးနှင်းကျရာ ညအခါတွင် လွင်တီးခေါင်၌ သင်္ကန်းတစ်လွှာတည်းဖြင့်သာ နေထိုင်တော်မူ၏၊ အလွန် မချမ်းလှသေး, နေသာ ထိုင်သာ ရှိတော်မူ၏၊ သို့ရာတွင် ညဦးပိုင်း ကုန်လွန်သွားသောအခါ အေးလာသည်၊ ထို့ကြောင့် သင်္ကန်းတစ်ထည်ကို ထပ်၍ ခြုံလိုက်ရတော့၏၊ အအေးလုံသွားသည်။

သို့သော် ညဥ့်လယ်ပိုင်း ကုန်လွန်သွားသောအခါ အေးစိမ့်လာပြန်သည်၊ ထို့ကြောင့် နောက်ထပ်သင်္ကန်းတစ်ထည် ထပ်၍ ခြုံရ၏၊ အအေးလုံသွားသည်၊ ထို့နောက် ညဥ့်နောက်ပိုင်းယံ ကုန်၍ အရုဏ်ဦးသို့ ရောက်သောအခါ အအေးပိုလာပြန်သည်၊ ထို့ကြောင့် နောက်ထပ် စတုတ္ထသင်္ကန်းတစ်ထည် ထပ်၍ခြုံရပြန်၏၊ ထိုအခါမှ အအေးလုံ၍ (မိုးလင်းလာ ပြီးလျှင်) အအေးလည်း ကုန်တော့သည်။

(၁) ဝိ - ၃ = ၁၂၆။ (၂) ဝိ - ၃ = ၄၀၁။

သင်္ကန်းလေးထည်ဆိုသည်မှာ သင်းပိုင်တစ်ထည်နှင့် ကေသီသုံးထည်ဖြစ်၏၊ ဤသို့ ဘုရားစမ်းသပ်တော်မူသည်ကို "ဘုရားချမ်းတော်မူသည်"ဟု ပြောကြကာ ယခုအခါ တပို့တွဲနှင့် တပေါင်းလ အကြား ၈ ရက်ကာလများတွင် ဘုရားစေတီရင်ပြင်များပေါ်၌ သနပ်ခါး, နံ့သာ, ကရမက်တုံးများကို မီးရှို့ပူဇော်သော အလေ့အထ အချို့ဒေသများတွင် ရှိကြ၏။

## သုံးထည်သင်္ကန်းခွင့်ပြုရပုံ

ထိုသို့ ကိုယ်တော်တိုင် စမ်းသပ်ပြီးသောအခါ ရှင်တော်ဗုဒ္ဓက ခြုံထည်သင်္ကန်း သုံးထည်တွင် သွားရာ လာရာ၌ လွယ်ကူစွာ ယူငင်နိုင်ရန် နှစ်ထည်ကို ပူးတွဲကပ်၍ ထပ်ခွင့်, တစ်ထည်ကို တစ်လွှာချင်း အတိုင်း ထားခွင့်ပြုတော်မူ၏၊ ဤသို့ ပြုတော်မူပြီးလျှင် *"အနုဇာနာမိ ဘိက္ခဝေ တိစီဝရံ ဒိဂုဏံ သံဃာဋိံ ဧကစ္စိယံ ဥတ္တရာသင်္ဂံ ဧကစ္စိယံ အန္တရဝါသကံ" ဟု မိန့်တော်မူ၏၊ နှစ်လွှာနှစ်ထပ် ချုပ်အပ်သော သင်္ကန်းကြီး, တစ်လွှာချင်းထားအပ်သော အပေါ်ခြုံ ကေသီ, တစ်လွှာချင်းထားအပ်သော ခါးဝတ်သင်းပိုင်၊ ဤသို့ (တိစီဝရ) သင်္ကန်းသုံးထည်ကို ခွင့်ပြုတော်မူခြင်း ဖြစ်ပေသည်။

**မှတ်ချက်။** ။ဤသို့လျှင် သင်္ကန်းသုံးထည် ခွင့်ပြုရခြင်း၏ အကြောင်းရင်းမှာ အအေးဒဏ်ကို ကာကွယ်နိုင်ရန်အတွက်သာ ဖြစ်၏။

ရဟန်းဖြစ်နိုင်ဖို့အတွက် သတ်မှတ်သည်မဟုတ်ချေ၊ ဤအချက်ကို မြောင်းမြဆရာတော်ကြီးက လေးနက်စွာ မှတ်ယူထား၍ မိန့်ကြားတော်မူနေခြင်း ဖြစ်သည်၊ သဘာဝလည်း ကျ၍ မှတ်ယူဖို့ကောင်းသော အယူအဆလည်း ဖြစ်ပါပေသည်။



**အေးစိမ့်သောရာသီတွင် သုံးထည်သောသင်္ကန်းနှင့် ညီမျှအောင် ကိုယ်ပတ် ပတ်နေကြပုံ**

* ဝိ - ၃ = ၄၀၂။

## ဒုတိယမ္ပိစသည် ထည့်သင့်/မသင့်

ထို့ပြင်လည်း အကြောင်းစပ်သလို မှတ်သားဖွယ် ကလေးများကို အနားယူနေခိုက်၌ မိန့်ကြားတော်မူ တတ်ပါသေး၏၊ ရဟန်းခံရာတွင် "သံဃံ ဘန္တေ ဥပသမ္ပဒံ ယာစာမိ"စသည်ဖြင့် ရဟန်းအဖြစ်ကို တောင်းရာ၌ "နှစ်ကြိမ်မြောက် တောင်းပါ၏၊ သုံးကြိမ်မြောက် တောင်းပါ၏"ဟူ၍ စပ်ပုဒ်ရှိသော ကြောင့် ဒုတိယမ္ပိ, တတိယမ္ပိ ထည့်၍ ဆိုသင့်သည်၊ တစ်ဖန် "သံဃံ ဘန္တေ ပဝါရေမိ"စသော ပဝါရဏာ ပြုခန်းတွင်လည်း "နှစ်ကြိမ်မြောက် ဖိတ်မန်ပါ၏၊ သုံးကြိမ်မြောက် ဖိတ်မန်ပါ၏"ဟူ၍ စပ်ပုဒ်ရှိသော ကြောင့် ဒုတိယမ္ပိ, တတိယမ္ပိ ထည့်သင့်ပါ၏။

"ဥပဇ္ဈာယော မေ ဘန္တေ ဟောဟိ" ဟူ၍ ဥပဇ္ဈာယ်ယူရာ၌ကား "အရှင်ဘုရားသည် တပည့် တော်၏ ဥပဇ္ဈာယ်ဆရာ နှစ်ကြိမ်မြောက်ဖြစ်တော် မူပါ, သုံးကြိမ်မြောက် ဖြစ်တော်မူပါ"ဟု အဓိပ္ပာယ် မကောင်း, စပ်ပုဒ်မရှိ၊ ထိုနေရာမျိုး၌ ဒုတိယမ္ပိ, တတိယမ္ပိ မထည့်နှင့်၊ လေးစားဖွယ်ဖြစ်အောင် စာသားကို သုံးကြိမ်ဆိုတာတော့ ဆိုပေ့ါ"ဟူ၍လည်း ကောင်း, "ပရိသုဒ္ဓေါ အဟံ ဘန္တေ, ပရိသုဒ္ဓေါတိ မံ ဓာရေထ"ဟူ၍ ပါရိသုဒ္ဓိဥပုသ်ပြုရာတွင်လည်း "တပည့်တော်သည် နှစ်ကြိမ်မြောက် စင်ကြယ်ပါ၏, သုံးကြိမ်မြောက် စင်ကြယ်ပါ၏"ဟူ၍ အဓိပ္ပာယ် မကောင်း, စပ်ပုဒ်မရှိ၊ ထို့ကြောင့် ထိုနေရာမျိုး၌ လည်း လေးစားဖွယ်ဖြစ်အောင် စာသားကို သုံးကြိမ် ထပ်ဆိုချင်တော့ ဆိုပေ့ါ၊ ဒါပေမယ့် ဒုတိယမ္ပိ, တတိယမ္ပိ ပုဒ်ကိုတော့ ထည့်ပြီး မဆိုသင့်ဘူး"ဟူ၍ လည်းကောင်း ဗဟုသုတအဖြစ် အပိုမိန့်တတ်ပါ သေးသည်။

## စူးရှသောဝိနည်းအမြင်

မြောင်းမြဆရာတော်ကြီးသည် ဝိနည်းနှင့်ပတ် သက်၍ စူးရှထိမိသောအမြင် ရှိတော်မူ၏၊ ကိုယ် တော်တိုင်လည်း ဝိနည်းလေးစားတော်မူ၏၊ သူတစ် ပါးကိုလည်း လေးစားအောင် တိုက်တွန်းတော်မူလေ့ ရှိ၏၊ ဝိနယကုက္ကုစ္စသံသယလည်း ကြီးမားတော်မူလှ ၏၊ အကြောင်းကိစ္စရှိ၍ အခြားရပ်ရွာများသို့ ခရီး သွားရလျှင် နေရာချပေးသော ကျောင်းပေါ် ကျောင်းရိပ်တို့၌ အိပ်ခဲ၏၊ အဘယ့်ကြောင့်ဆိုသော် နိသဂ္ဂိငွေတို့ဖြင့် ဆောင်ထားသောကျောင်း ဖြစ်နေ ပါက အပြစ်သင့်မည် စိုးသောကြောင့် ဟူ၏။

ထို့ကြောင့် သစ်ပင်အောက် (သို့မဟုတ်) ဇရပ် ပေါ် စသည်တို့၌သာ တည်းခိုလေ့ရှိသည်၊ ဤသို့ ဝိနည်းကိုယ်ကျင့်သီလတို့ဖြင့် ဖြူလွှအောင် နေလို သော အလေ့အထ ရခဲ့သည်မှာ မြင်းမူမြို့နယ် "ငကင်းစာသင်တိုက် ဆရာတော်ကြီးများ"ထံမှ ရခဲ့ သည်ဟု တစ်ဆင့်ကြားရဖူးပါ၏၊ ထို့ပြင် ဝိသုဒ္ဓါရုံ ဆရာတော်ကြီးထံမှလည်း ဝိနည်းအဋ္ဌကထာများကို လေ့လာခွင့် ရခဲ့သည်ဟု ဆို၏။

အချိန်ရှိသမျှလည်း ဝိနည်းဘက်ကိုပင် အားသွန် ၍ လေ့လာတော်မူ၏၊ ထို့ကြောင့် အရှင်ဥပါလိ မထေရ်မြတ်ကြီးက ... "ဝိနယော အာသယော မယှံ, ဝိနယော ဌာနစင်္ကမံ"ဟူ၍ ဥဒါန်းကျူးရင့် တော်မူသလို, မြောင်းမြဆရာတော်ကြီးကလည်း အချိန်ရှိသမျှ ဝိနည်းကိုပင် စဉ်းစား, ဝိနည်းကိုပင် လေ့လာ, ဝိနည်းကိုပင် နေရာကျောင်းသဖွယ်ပြု၍ နေတော်မူခဲ့၏။

ဆရာတော်ကြီးသည် ငယ်ရွယ်စဉ် သာမဏေ ဘဝက ဝါသနာ စရိုက်အရ ခပ်ကြမ်းကြမ်းနေထိုင် လာခဲ့သော်လည်း ၁၈ နှစ်သားအရွယ် ကိုရင်ကြီး ဘဝတွင် စစ်ကိုင်းတိုင်း မြင်းမူမြို့နယ် ငကင်းရွာ (ငကင်းရွာ စာသင်တိုက်)သို့ ရောက်သောအခါမှ တိုက်အုပ် တိုက်ကြပ် ဆရာတော်ဘုရားကြီးများ၏ အဆုံးအမကို ရ၍ နူးညံ့လာရတော့၏၊ သိမ်မွေ့လာ ရတော့သည် ဆို၏၊ ထိုစာသင်တိုက်တွင် နေထိုင်ရ သည်မှာ ဝိနည်းလည်းတတ်, စာလည်းတတ် ဖြစ် တော့သည် ဟူသတတ်။

ထို့နောက် ရဟန်းဘဝသို့ ရောက်သောအခါ မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံ ရွှေကျင်ဆရာတော်ဘုရားကြီးတို့၏အထံတော်တွင် ထပ်မံ၍ ဝိနည်းပါဠိတော်နှင့်အဋ္ဌကထာကြီးများကို ဆိုရ တက်ရ လေ့လာရသဖြင့် ပို၍ ဝိနည်းကို ပိုင်နိုင်သွားရတော့၏၊ ထို့ကြောင့်လည်း ဝိနည်းနှင့်ပတ်သက်လာလျှင် အရာရာမှာ အတွေးအခေါ် အယူအဆ ပြတ်သားလှ၏၊ ထိလှ၏၊ တိကျ၏၊ ကြည်ကြည်လင်လင်နှင့် ပီပီပြင်ပြင် မြင်တော်မူရသည်ဟု ဆိုသည်၊ ရဟန်းဘဝ ငယ်စဉ်ကပင် ဝိနည်းဘက်မှာ နာမည်ရခဲ့သည်ဟူ၏။

ထို့ကြောင့်လည်း ငယ်ရွယ်လင့်ကစား မြောင်းမြဆရာတော်လောင်း ဦးပဥ္စင်းထံတွင် ဝိနည်းနှင့်ပတ်သက်သော အယူအဆများကို အချို့ဆရာတော်ကြီးများက မေးလေ့ရှိတော်မူခြင်း ဖြစ်ပေသည်၊ ဤသက်န်း သုံးထည် ကိစ္စနှင့် ပတ်သက်၍လည်း မြောင်းမြဆရာတော်ကြီးက အထက်ပါအကြောင်းရင်း ဝတ္ထုကို သက်သေထူ၍ မိန့်တော်မူခြင်းဖြစ်ပေသည်။

ဤသို့ ဤသို့ စဉ်းစားဖွယ် မှတ်သားဖွယ် နည်းယူဖွယ် ကောင်းသည့် ဆရာတော်ဘုရားကြီး၏ ဝိနည်းဗဟုသုတတို့ကို မိမိ တပည့်များရရှိအောင် ဆရာတော် အရှင်ဇနကာဘိဝံသက အခွင့်အရေး ဖန်တီး၍ ဖန်တီး၍ ပေးတော်မူခြင်း ဖြစ်လေသည်။

# စာလာပေလာနှင့်ကိုက်၍ သဘာဝဆိုက်အောင် ပြုပြင်ခြင်းများ

## ရဟန်းလောင်းဆုံးမကိစ္စတွင်

ဆရာတော် အရှင်ဇနကာဘိဝံသသည် ရဟန်းခံကိစ္စဝယ် "ရဟန်းလောင်းဆုံးမခန်း"၌ ဘဝင်မကျဖြစ်နေဟန်တူသည်၊ အဘယ်သို့နည်း? များစွာသောနေရာတို့၌ ရဟန်းလောင်းဆုံးမသော ပုဂ္ဂိုလ်သည် ရဟန်းလောင်းနှင့်တကွ ခပ်ကျဉ်းကျဉ်း သိမ်ကလေးအတွင်း၌ သံဃာအစုအဝေးမှ သုံးတောင် လေးတောင်ခန့်မျှ ဖဲခွာ၍ ရပ်ကြပြီးလျှင် ဆုံးမကြ၏၊ ဆုံးမသော "အနုသာသက"ပုဂ္ဂိုလ်သည် အခွင့်ရခိုက်တွင် အနက်ဆန်းများထွင်၍ အသံလွင်လွင်ဖြင့် ဟစ်ကာ ဟစ်ကာ ပတ်ဝန်းကျင် ပရိသတ်များ ကြားလောက်အောင် ဆုံးမပြ၏၊ ဤနေရာတွင် သူ့အစွမ်းကို ပြတော့သည်၊ သူနှင့်စပ်ရာ ဒါယကာ ဒါယိကာမများကလည်း ဩဘာပေးကြ၏။

အမှန်မှာ ဤကိစ္စ၌ ပတ်ဝန်းကျင်ပရိသတ်များကြားဖို့မလို၊ ရဟန်းလောင်းတစ်ပါးသာလျှင် သိဖို့လိုသည်၊ ထို့ပြင် တိုးတိုးတိတ်တိတ် သင်နေခြင်းလည်း ဖြစ်သည်။

ထို့ကြောင့် "ဆုံးမ"ဆိုသည်ထက် "သွန်သင်"ကို ပို၍ ကြိုက်သည်ဟု မိန့်တော်မူသည်၊ တစ်ဖန် ထိုသွန်သင်သောစကားရပ်များတွင် "သံဃာ့အလယ်ကျလျှင် သမ္မုတိရသောပုဂ္ဂိုလ်က စစ်ဆေးမေးမြန်းလိမ့်မည်၊ ဟုတ်လျှင် ဟုတ်တဲ့အကြောင်း, မဟုတ်လျှင် မဟုတ်တဲ့အကြောင်း မှန်မှန် ဖြေကြားရမည်"ဟု တိုးတိုးတိတ်တိတ် သင်နေသော စကားလုံးများကို အော်ကြီးဟစ်ကျယ် ပြောနေသဖြင့် ထိုသံဃာ့ပရိသတ်ထဲက သမ္မုတိရမည့် ပုဂ္ဂိုလ်က ကြားနေရ၏၊ ဤသည်ပင် တိုးတိုး တိတ်တိတ်သင်နေသော အဓိပ္ပာယ်မဆောင်တော့။

## အဆင်မလှ၍ ဘဝင်မကျ

တစ်ဖန်လည်း "သံဃာ့ပရိသတ်ထဲက သမ္မုတိရပုဂ္ဂိုလ်က စစ်ဆေးလိမ့်မည်"ဟု သင်ထားခဲ့ပြီးလျှင် သံဃာ့ပရိသတ်ထဲ ရောက်သောအခါ သူသည်ပင် ပြန်၍ တကယ်တရားဝင် စစ်ဆေးမေးမြန်းနေပြန်၏၊ ရှေ့စကားနှင့်နောက်စကား မပြေသလို ဖြစ်၏၊ ရှေ့စကားက တခြားသော သမ္မုတိရပုဂ္ဂိုလ်က စစ်ဆေးမှာလိုလိုနှင့် နောက်တော့ သူကိုယ်တိုင်ပင် စစ်ဆေးနေ၏၊ သံဃာ့ပရိသတ်ကလည်း သက်သာ

ခိုလိုသဖြင့် "ကိုယ်တော်ပဲ လုပ်လိုက်"ဟု ခိုင်းတတ်ကြ၏၊ ဤသည် ဤသည်တို့အတွက် အဆင်မလှသဖြင့် ဘဝင်မကျ ဖြစ်နေဟန်တူ၏၊ (မဟာဂန္ဓာရုံတိုက်တွင်း၌ကား သွန်သင်ဆုံးမသူ "အနုသာသက" ပုဂ္ဂိုလ်က တစ်ပါး, သံဃာ့ပရိသတ်ထဲက တကယ်စစ်ဆေးမည့်သူ "အနုဝိဇ္ဇက"ပုဂ္ဂိုလ်က တစ်ပါး သီးခြားစီ ဆောင်ရွက်ကြရသည်။)

## ကေမန္တံ နေတွာ

ဆရာတော်က အမိန့်ရှိသည်၊ "စာလာ ပေလာက (ကေမန္တံ-သင့်တော်ရာ အရပ်သို့ နေတွာ-ခေါ်ဆောင်သွားပြီး) သင်ကြားပါလို့ အဆိုရှိတာပဲကွယ့်၊ အခု သင်ကြားဆုံးမသွန်သင်နေကြတာက သံဃာ့ပရိသတ်အစွန်မှာပင် ဖြစ်နေတယ်၊ တိုးတိုးတိတ်တိတ် သင်ရမည့်ကိစ္စကို အခု အားလုံး ကြားနေရတယ်၊ ဒါ ဘယ်သဘာဝကျလိမ့်မလဲ"တဲ့။

ထို့ကြောင့် ဆရာတော်အရှင်ဇနကာဘိဝံသက သူများနေရာတွင် ဘာမျှ မပြောသော်လည်း ကိုယ့်ကျောင်းတိုက်တွင်ကား ကိုယ့်စိတ်ကြိုက် ပြုပြင် စီစဉ်တော့၏၊ တစ်ခါသော် ရှင်ဝါယာမ ရဟန်းခံကိစ္စရှိ၏၊ ထုံးစံအတိုင်း သိမ်ထဲမှာ အနုသာသကပုဂ္ဂိုလ်က ဥ တ်ထားပြီးနောက် "ကဲ-သွားကြ, မင်းတို့ ဆုံးမမယ့် ဦးသုမနနဲ့ ကိုရင်ဝါယာမတို့ ဟိုသီးပင်အောက်ထိအောင် သွားကြ"ဟူ၍ သိမ်နှင့် ခပ်ဝေးဝေး ညွှန်လိုက်သည်။

## အာဂစ္ဆာဟီတိ ဝတ္တဗ္ဗော

ဤသို့ စီစဉ်လိုက်သောအခါတွင်မှ ဩသာရဏာ ဥ တ်အဆုံးတွင်ရှိသော (အာဂစ္ဆာဟီတိ ဝတ္တဗ္ဗော) စာပိုဒ်၏ အဓိပ္ပာယ်ပေါ်လွင်လာတော့၏၊ ရဟန်းလောင်းအား သွန်သင်ခဲ့ပြီးလျှင် အနုသာသကပုဂ္ဂိုလ်ချည်း သံဃာ့ဘောင်သို့ ပြန်လာခဲ့ရ၏၊ ရောက်လျှင် "သွန်သင်ခဲ့ပြီးပြီဖြစ်ကြောင်း, သို့ဖြစ်၍ ရဟန်းလောင်းသည် သံဃာ့ဘောင်သို့ လာဖို့ အခွင့်သင့်ပြီဖြစ်ကြောင်း"ကို ဩသာရဏာဥ တ်ထားရ၏၊ ဤသို့ ဥ တ်ထား၍အပြီးတွင် ရဟန်းလောင်းက ကြားလျှင်တန်းပြီး ဝင်လာရုံပင် ဖြစ်၏၊ အနည်းငယ် ဝေး၍ မကြားလျှင် ဥ တ်အပြီးတွင် အလွတ်သဘောမျိုးဖြင့် လှမ်းပြီး (အာဂစ္ဆာဟီတိ-လာခဲ့လို့၊ ဝတ္တဗ္ဗော-ပြောဆိုခေါ်ငင်သင့်၏၊) ဤသို့ အမှာစကားကို ကမ္မဝါ၏ အဆုံးနားတွင် ထည့်သွင်း ရေးသားထားသည်။

ဤသည်ကို အချို့က ကမ္မဝါစာ ထင်မှတ်၍ ကမ္မဝါစာအဆုံးတွင် "အာဂစ္ဆာဟီတိ ဝတ္တဗ္ဗော"ဟု ဌာန်ကရိုဏ်း ပီသစွာဖြင့် (ဌာန်တွေ မာန်တွေဖြင့်) ထည့်၍ ဖတ်တတ်ကြသေး၏။

သဘော သဘာဝကို မစဉ်းစားကြသဖြင့်... ဝမ်းနည်းဖွယ် ကောင်းလှသည်။

## ဟုတ်တာ မှန်တာ ဝန်ခံရတယ်

ထို့ပြင်လည်း အများအားဖြင့် ရဟန်းလောင်းဆုံးမသွန်သင်နေကြသည်မှာ "သင့်မှာ အနာကြီးရောဂါ (နူနာ) ရှိသလား"လို့ မေးလိမ့်မယ်၊ မေးတဲ့အခါ "နတ္ထိ ဘန္တေ-မရှိပါဘုရား"လို့ လျှောက်ထားပါဟူ၍လည်းကောင်း, ထို့ပြင် "သင်သည် ယောကျ်ား စင်စစ် ဟုတ်ပါ၏လော"လို့ မေးလိမ့်မယ်၊ အဲလို မေးတဲ့အခါ "အာမ ဘန္တေ-မှန်ပါဘုရားဟု လျှောက်ထားပါ"ဟူ၍လည်းကောင်း, ပြီးတော့ "သင်သည် ကြွေးမြီကင်းသူ ဟုတ်ပါ၏လော, ကြွေးမြီများ ရှိသလား"လို့ မေးလိမ့်မယ်၊ အဲလို မေးတဲ့အခါ "နတ္ထိ ဘန္တေ-မရှိပါဘုရားဟု လျှောက်ထားပါဟူ၍လည်းကောင်း စသည်ဖြင့် ဆုံးမသွန်သင်နေကြသည်မှာလည်း သဘာဝ မကျလှပေ။

အဘယ့်ကြောင့်ဆိုသော် ဤသွန်သင်နေပုံမှာ အနာကြီးရောဂါ ရှိရှိ မရှိရှိ "နတ္ထိ ဘန္တေ-မရှိပါဘုရား"လို့ ဘူးကွယ် ခိုင်းသလို, ယောကျ်ား စင်စစ်

ဟုတ်ဟုတ် မဟုတ်ဟုတ် "အာမ ဘန္တေ-မှန်ပါ, ဟုတ်ပါတယ်ဘုရား"လို့သာ လိမ်လည်ဝန်ခံခိုင်းသလို, ကြေးမြီရှိရှိ/မရှိရှိ "နတ္ထိ ဘန္တေ = မရှိပါဘုရား"လို့ ဖွတ်အတင်း ဘူးကွယ်ခိုင်းသလို သွန်သင်နည်းမျိုး ဖြစ်နေ၏။

အမှန်မှာ ထိုသို့ မဟုတ်ပါချေ၊ "ရှိလျှင် ရှိပါကြောင်း လျှောက်ပါ, မရှိလျှင် မရှိပါကြောင်း လျှောက်ပါ၊ ဟုတ်လျှင် ဟုတ်ပါကြောင်း လျှောက်ပါ, မဟုတ်လျှင်လည်း မဟုတ်ပါကြောင်း လျှောက်ပါ" ဟူ၍သာ အစုံ အစုံ ပြောရမည် ဖြစ်ပါ၏။

## ပွဲစားကြီး၏ ရဟန်းခံပွဲ

တစ်ခါသော် မန္တလေးမြို့မှ လက်ဖက်ခြောက်ကုန်သည်ပွဲစားကြီးတစ်ယောက် အမရပူရ မဟာဂန္ဓာရုံသို့ လာ၍ ဒုလ္လဘရဟန်း ပြုဖူး၏၊ စာရေးသူက အနုသာသက "ဆုံးမသည့်ပုဂ္ဂိုလ်"လုပ်ရ၏၊ ဆရာတော်က အမိန့်ရှိသည်, "ကဲ-သွားကြ, မင်းတို့ဆရာ တပည့် ဟိုထောင့်ခန်းထဲသွား, သွန်သင်ဆုံးမကြ"ဟူ၍ အဝေးသို့ ညွှန်လိုက်သည်။

မဟာဂန္ဓာရုံတိုက်မှာ ရှေ့ပိုင်းတုန်းက သိမ်အဆောက်အအုံ မရှိ၊ လွင်တီးခေါင်မှာ ဖျာခင်း၍ ဥပုသ်ပြုရ၏၊ ပဝါရဏာပြုရ၏၊ ရဟန်းခံရ၏၊ ကံကြီးကံငယ် ဆောင်ရ၏၊ နောက်ပိုင်းကျမှသာ ဒါယကာဒါယိကာမတို့က သိမ်တိုက်ကလေးတစ်လုံး ဆောက်လုပ်လှူဒါန်းလာကြသည်၊ ဝရန်တာနှင့်တကွ သိမ်ဘုန်းကြီးနေဖို့ပါ ထောင့်တစ်နေရာ၌ အခန်းဖွဲ့၍ပေး၏၊ ထို့ကြောင့် တစ်ခါတလေ ဝရန်တာဘက်သွား၍ တစ်ခါတလေ အခန်းထဲသွား၍ ဆုံးမကြရသည်၊ ယခုအခါတွင်ကား သံဃာတစ်ထောင်ကျော်ဆံ့သော ခမ်းနားသည့် သိမ်ကျောင်းကြီး ရနေလေပြီ၊ ယခုလည်း ခပ်လှမ်းလှမ်းမှာရှိသော ထောင့်ခန်းတစ်ခုအတွင်းသို့ သွား၍ ဆုံးမကြရမြဲ ဖြစ်သည်။

## ဒီဘုကလေး ဖြစ်ပါ့မလား

စာရေးသူက ဆရာတော်ဝါဒအတိုင်း ဆုံးမ၏၊ "ရှိလျှင် ရှိပါကြောင်း, ဟိုကျတော့ ပြောရမယ်နော်, ကွယ်ဝှက်ထိမ်ချန်မထားရဘူး" "ဂဏ္ဍော-ထွတ်မြင်းအနာ (မြင်းဖုံနာ) ရှိသလား"လို့ မေးလိမ့်မယ်၊ ရှိရင် ရှိပါဘုရားလို့, မရှိရင်လဲ မရှိပါဘုရားလို့ ရိုးရိုးသားသား ဝန်ခံရမယ်, ဒါတွေ ရှိနေရင် ရဟန်းမလုပ်ရဘူး"ဟု ပြောသောအခါ

"ဟာ-ဒုက္ခပဲဘုရား"

"ဘာပြုလို့လဲ ငါ့ရှင်"

"တပည့်တော် လည်ပင်းမှာ အဖုကလေး ရှိနေတယ်, ဖြစ်ပါ့မလား"

"ဘယ်လောက် ကြီးသလဲ ပြစမ်းပါ"

"ဒီမှာ ဘုရား" (လက်ညှိုးဖြင့်ထောက်ပြသည်)

"ဟာ... ဒါက သေးသေးကလေးပဲ, ရွှေးစေ့လောက် ရှိတာပါ, မှဲ့အနီကလေးပဲ, ဒါမျိုးကို ဆိုလိုတာ မဟုတ်ပါဘူး, ကြည့်မကောင်း ရှုမကောင်းအောင် ကြီးတဲ့ ဘုကြီးတွေ ပြောတာပါ"

"တော်ပါသေးဘုရား, တပည့်တော်ဖြင့် ထိတ်လန့်သွားတာပဲ"

"ကိစ္စ မရှိပါဘူး, ဒါက ရပါတယ်"

ထိုအခါကျမှ စိတ်သက်သာရာ ရသွားရှာ၏၊ ဤသို့လျှင် ဆရာ တပည့် ရင်းရင်းနှီးနှီး သင်ကြားဆုံးမနိုင်သည်၊ မရှင်းလျှင် အပြန်ပြန် အလှန်လှန် မေးနိုင် ဖြေနိုင်၏၊ ဘာ အနက်ဆန်းတွေမှ မေးနေဖို့ မလို၊ ဘေးက လူတွေ ကြားအောင်လည်း ဟစ်ဖို့မလိုတော့ပေ။

ဤသို့လျှင် ယုတ္တိရှိ၍ သဘာဘာဝ ဆိုက်အောင် ပြုပြင်တော်မူသည်။

## ဗိုလ်မှူးများ၏ သားရှင်ပြု

တစ်ခါက ကြုံတွေ့ရဖူးသော အဖြစ်အပျက်ကလေးတစ်ခုကိုလည်း တင်ပြလိုပါသေး၏၊ ၁၃၂၃ ခု တန်ခူးလဆုတ် ၁၃ ရက် (၁၉-၄-၇၀) တနင်္ဂနွေနေ့က ဖြစ်၏၊ ဗိုလ်မှူးဘသိန်း (မန်းခရိုင် မြေကျေးရှင်းအရာရှိ)၏ သားတစ်ယောက်နှင့်တူသုံးယောက် မဟာဂန္ဓာရုံမှာ လာ၍ ရှင်ပြုကြ၏၊ ထို့နေ့မှာပင် ဗိုလ်မှူးဘလှ (နမခ ကုန်သွယ်ရေးတာဝန်ခံ)၏သား မောင်တင်အောင်လှကို ဒုလ္လဘရဟန်းခံကြ၏။

ရဟန်းခံပွဲ မစမီ နံနက်စောစော ထုံးစံအတိုင်း ဩဝါဒပေးရာတွင် ဆရာတော်က "ဒီနေ့မနက် တွေ့ရတယ်၊ ဗိုလ်မှူးဘသိန်းတို့က စောစောစီးစီး ကော်ဖီတွေ ပေါင်မုန့်ထောပတ်သုတ်တွေနှင့် တယ်ဖိမ်ခံလွန်းတယ်" အစချီ၍ မြည်တွန်သောဩဝါဒ ပေးပါလေတော့သည်၊ "ဒါကြောင့် တို့တိုင်းပြည်က ခက်နေတာ"ဟုလည်း ညည်းသေး၏၊ ပရိသတ်များကား (သံဃာ့ပရိသတ်, လူပရိသတ်ပါ) တုတ်တုတ်မျှ မလှုပ်ဝံ့ကြ, အပ်ကျသံပင် ကြားရမည်ထင်၏။

ဤသို့လျှင် ဆရာတော်ကား ရင်းနှီးလျှင် ရင်းနှီးသလို မညှာမတာ ဆိုတတ်၏၊ မျက်နှာကြီးငယ်ကို မထောက်, ဟုတ်ရာမှန်ရာကို ပြတ်ပြတ်တောက်တောက် ပြောတတ်၏၊ သို့သော် ဝမ်းတွင်းမေတ္တာကရုဏာကား တူးခါးကြမ်းတမ်းမည် မဟုတ်ပါ၊ ကြီးပွားစေလိုသော စေတနာတို့သာ ပြဋ္ဌာန်းလျက် ရှိပါလိမ့်မည်။

## မျက်နှာမရွေး ပြုပြင်ပေး

တစ်ခါတွင်လည်း မြို့မှ တိုင်းသာသနာရေးအရာရှိကြီးတစ်ယောက် မိတ်ဆွေများ ဆွမ်းကျွေးမည်ဖြစ်၍ မဟာဂန္ဓာရုံသို့ လိုက်ပါလာ၏၊ သံဃာစဉ်ရာတွင် ယင်းတိုင်းသာသနာရေးအရာရှိကြီးက ဆရာတော့်ကို "ဘုန်းဘုန်းက ဒီဘက်ကြွပါဘုရား" ဟု လျှောက်ထားလိုက်ရာ ဆရာတော်က "အောင်မယ်, ငါ့ကိုများ ဘုန်းဘုန်းတဲ့၊ သာယာလိုက်တဲ့အသံ, တိုင်းသာသနာရေးအရာရှိကြီးရဲ့ အသုံးအနှုန်းနှင့် ဝေါဟာရတဲ့, မင်း ဒီလိုနဲ့ ညာစားနေတာ ဘယ်လောက်များပလဲ၊ ဒိပြင် ဘုန်းကြီးတွေလို ငါ့ကို ညာလို့ရမယ် ထင်လို့လား"တဲ့။

သာသနာရေးအရာရှိကြီးမှာ ပါးစပ်အဟောင်းသားနှင့်အံ့အားသင့်ရတော့၏၊ တခြားနေရာများတွင်ဆိုလျှင် သူလည်း သူ့နေရာနှင့်သူ ဘုရင်တစ်ဆူ မဟုတ်ပါလော၊ ဤနေရာတွင်ကား ခံရလေခြင်း။

ဤမျှသာမကသေး ပရိသတ်အစုံ ဗိုလ်ပုံအလယ်တွင် ဩဝါဒပေးရာ၌လည်း ယင်းသာသနာရေးအရာရှိ၏ ဝေါဟာရကို ထပ်မံပြောပြ၍ ဆူပြန်လေသည်၊ သာသနာရေးအရာရှိကြီးမှာ ခေါင်းငုံ့နေရတော့၏။

## အသုံးအနှုန်းဝေါဟာရ

ဆရာတော်ဆိုလိုသည်မှာ "ဘုန်းဘုန်း"ဟူသော အသုံးအနှုန်းသည် မြေးအရွယ် မြစ်အရွယ် ကလေးသူငယ်များကသော်လည်းကောင်း (သို့မဟုတ်) နုနုနယ်နယ် အားငယ်တတ်သော အမျိုးသမီးများကသော်လည်းကောင်း ဘကြီးဘုန်းကြီးများကို ရင်းနှီးသောအားဖြင့် (ချစ်စနိုးအားဖြင့်) ခေါ်တတ်သော "ဘုန်းဘုန်း" ဖြစ်သည်၊ ယခုသော် ကျားကျားယားယား အလုပ်လုပ်ရမည့် သာသနာရေးအရာရှိကြီးက ဤဝေါဟာရကို သုံးရပါမည်လားဟု မြည်တွန်ခြင်းဖြစ်သည်၊ ဆရာတော်အနေဖြင့် ကလက်တက်တက် အသုံးအနှုန်းဟု ထင်၏၊ ဆရာတော်သည် သူ့ကို အများက "ဆရာတော်" ဟု ခေါ်ကြသည်ကိုလည်း သူမကြိုက်၊ "အောင်မယ်, ငါ့ကိုများ ဆရာတော်တဲ့, ဘုန်းကြီးဆို တော်ရောပ" တဲ့၊ သူ့ကိုယ်သူလည်း "ဘုန်းကြီး"ဟုပင် သုံးပါသည်၊ "ဘုန်းကြီး အမြဲတမ်းအလုပ် လုပ်နေတယ်"စသည်ဖြင့် "ဘုန်းကြီး"ဟူသာ

သုံးနှုန်းပါ၏၊ သူ့ကိုယ်သူ "ဆရာတော်"ဟူ၍ ဘယ်သောအခါမျှ မသုံးခဲ့၊ ဤသို့လျှင် ရင်းနှီးသော သာသနာရေးအရာရှိ ဖြစ်၍လည်း ပြုပြင်နိုင်ရန် မညှာမတာ ဆူတော်မူခြင်း ဖြစ်၏၊ ဤသို့ ဆူနိုင်ခြင်းမှာ အရာရာ၌ ဆရာတော်က အလုပ် မှန်ကန်နေ၍သာ ဖြစ်သည်၊ သတိရှိတော် မူကြပါကုန်။

## ရိုးသားသမျှ ပွင့်လင်းလှ

သို့နှင့် နံနက် ၈ နာရီခန့်ရှိသောအခါ ဒုဗိုလ်မှူးကြီး ဘလှ၏သား တင်အောင်လှ၏ ရဟန်းခံပွဲ စကြလေသည်၊ အမရပူရ နလကဥက္ကဋ္ဌ ဗိုလ်ကြီး သန်းလွင်, ကုန်သွယ်ရေးဦးစီးမန်နေဂျာ ဦးခင်မောင်ဝင်း တို့နှင့်တကွ မြို့မိ မြို့ဖ မျက်နှာကြီးပရိသတ်များလည်း သိမ်ကြီးပေါ် ခန်းမတွင်းမှာ စုံကြလေပြီ၊ ရဟန်းလောင်းဆုံးမခန်း၌ အနုသာသကပုဂ္ဂိုလ်က ထုံးစံအတိုင်း ရဟန်းလောင်းကို ထောင့်ခန်းတစ်ခုသို့ ခေါ်သွားပြီးလျှင် တိုးတိုးတိတ်တိတ် မှာကြားခဲ့လေ၏၊ "ဟုတ်လျှင် ဟုတ်ပါကြောင်း, မဟုတ်လျှင် မဟုတ်ပါကြောင်း လျှောက်ရတယ်၊ ရှိလျှင် ရှိပါကြောင်း, မရှိလျှင်လည်း မရှိပါကြောင်း အမှန်အတိုင်း ပြောရတယ်, မလိမ်ရဘူး, မညာရဘူး"ဟု မှာထား သင်ကြားခဲ့၏၊ အနုသာသကပုဂ္ဂိုလ်ချည်း သံဃာ့ဘောင်သို့ ပြန်လာခဲ့၏၊ ထို့နောက် အနုဝိဋ္ဌက ပုဂ္ဂိုလ်၏ တရားဝင် စစ်ဆေးမေးမြန်းသောအခါ...

အနုဝိဋ္ဌက ။ ။ ငါ့ရှင်မှာ နူနာရှိသလား။

ရဟန်းလောင်း ။ ။ နှင်းခူနာတွေ ရှိပါတယ်ဘုရား။

ဆရာတော် ။ ။ ဟ-နှင်းခူနာတွေရှိ ဆိုပါလား။ (သံဃာ့ပရိသတ်, လူပရိသတ်တို့မှာ လှုပ်လှုပ်ရွရွဖြစ်ကုန်ကြ၏။)

ဆရာတော် ။ ။ နေပါဦး,ကုလျှင် ပျောက်လောက်ကဲ့လား။

ရဟန်းလောင်း ။ ။ ပျောက်ပါတယ်ဘုရား။

ဆရာတော် ။ ။ ဟဲ ကဲ ဒါဖြင့် မရှိဘူးထားလိုက်, ရှေ့ဆက် မေး။

အနုဝိဋ္ဌက ။ ။ ငါ့ရှင်မှာ သူတစ်ပါး ကြွေးမြီ ကင်းရဲ့လား။

ရဟန်းလောင်း ။ ။ အဖေ အမေတို့မှာ ကြွေးတွေ ရှိပါတယ်ဘုရား။

(ဆရာတော်နှင့်တကွ ပရိသတ်များကား ရယ်ကြလေပြီ၊ တိတ်ဆိတ်နေသော ခန်းမကြီးမှာ... "သော."ခနဲ ပွဲကျသွား၏၊ ဒုဗိုလ်မှူးကြီးဘလှနှင့် သူ့ဇနီးတို့ကား မျက်စိမျက်နှာပျက်၍ ဦးခေါင်းငိုက်စိုက်ကျလျက်။)

ဆရာတော် ။ ။ မင့် အဖေ အမေရှိတာ မင်းနဲ့ မဆိုင်ဘူး,မင့်ကိုယ်ရေးကိုယ်တာသာပြော, ကြွေးကင်းရဲ့ မဟုတ်လား။

ရဟန်းလောင်း ။ ။ (အနည်းငယ်စဉ်းစား၍) တပည့်တော်မှာလဲ ၃၀ လောက်တော့ ရှိတယ်မှတ်တယ်ဘုရား။ (ရယ်ကြပြန်သည်။)

ဆရာတော် ။ ။ ကဲ ကဲ- အဲဒါကို မင့် မိဘက တာဝန်ယူဆပ်လိမ့်မယ်, ဆပ်လဲ ဆပ်လိုက်ကြ,ကဲ-ရှေ့ဆက်မေး။

အနုဝိဋ္ဌက ။ ။ ငါ့ရှင် အသက် ၂၀ ပြည့်ပြီလား။

ရဟန်းလောင်း ။ ။ မပြည့်သေးဘူးဘုရား။ (ကာရကသံဃာတော်များပါ မျက်လုံးပြူးကြရပြန်သည်။)

အနုဝိဋ္ဌက ။ ။ ဘယ်လောက်ရှိပြီလဲ။

ရဟန်းလောင်း ။ ။ ၁၉ နှစ်နဲ့ ၈ လပဲ ရှိပါသေးတယ်ဘုရား။

ဆရာတော် ။ ။ ပဋိသန္ဓေနေခဲ့တဲ့လပါ တွက်ရင် ပြည့်ပါပြီကွဲ့, ဒါကြောင့် ပြည့်ပါပြီလို့ လျှောက်ပါ။

ဤနည်းအားဖြင့် အနုဝိဋ္ဌက ပုဂ္ဂိုလ်က ဆက်မေး၍ ရဟန်းလောင်းက ဖြေကြားပြီးလျှင် ကမ္မဝါ

ဖတ်ပေးကြသဖြင့် လူအမည် မောင်တင်အောင်လှသည် ရဟန်းအဖြစ်သို့ရောက်ကာ ဦးတေဇိန္ဒ ဖြစ်သွားပါလေ၏။

ဤသို့လျှင် မောင်တင်အောင်လှသည် အထက်တန်းကျောင်းသားကြီးတစ်ယောက် ဖြစ်သော်လည်း အလွန်ရိုးသားလေစွ၊ သူ့မိဘနှစ်ပါးမှာလည်း စောစောက အရယ်ခံထားကြရသဖြင့် မလုံမလဲလို ဖြစ်ရ၏၊ ရှက်စရာလိုလို ဘာလိုလို ဖြစ်လိုက်ရ၏၊ သို့သော် အမှန်စင်စစ်ကား ရှက်စရာ မဟုတ်ပါပေ၊ တကယ်စဉ်းစားလျှင် ရိုးသားမှုအတွက် ဂုဏ်ယူစရာပင် ဖြစ်၍နေပြန်သည်၊ မိဘနှစ်ပါးက ရိုးသားကြ၍ မျိုးရိုးလိုက်ကာ မောင်တင်အောင်လှပါ ရိုးသားဖြောင့်မတ်သည်ဟု ဂုဏ်ယူနိုင်လောက်သောကြောင့် ဖြစ်လေသည်။

## ဦးဇနက ကွန်မြူနစ် စေတနာကို တလွဲထင်ကြ

ဆရာတော် အရှင်ဇနကာဘိဝံသသည် မြန်မာနိုင်ငံလွတ်လပ်ရေးရလျှင်နိုင်ငံနှင့်သာသနာအတွက် အဘက်ဘက်မှ ပြုပြင်နိုင်ရန်ဟူ၍... "အနာဂတ်သာသနာရေးကျမ်းစာကို ရေးသားထုတ်ဝေခဲ့၏၊ အခြားနိုင်ငံများနှင့်ယှဉ်နိုင်အောင် အစစ အရာရာ ပြုပြင်ကြရမည်, ချွေတာကြရမည်, အလုပ်လုပ်ကြရမည်, ကိုယ်စီကိုယ်င တက်တက်ကြွကြွ ရှိကြရမည်, စည်းကမ်းရှိကြရမည် စသည် ဖော်ပြလျက် တပ်လှန့်နှိုးဆော်လိုက်သည်၊ သို့သော် ကျမ်းစာထွက်ပေါ်လာသောအခါ အချို့က ဆရာတော့် စေတနာကို "စေတနာ"ဟု မထင်ကြတော့ဘဲ "ဝေဒနာ"ဟု ထင်ကာ ဝေဖန်လာကြတော့၏၊ အပြစ် ပြောလာကြတော့၏၊ အကောင်းမဆိုကြတော့ဘဲ "ကွန်မြူနစ်"ဟု စွပ်စွဲလာကြတော့သည်၊ ယင်းကိစ္စကို ဆရာတော်ကိုယ်တိုင်က အောက်ပါအတိုင်း ပြန်လည်ပြောပြဖူးသည်။

### ဒါတွေကိုရေးလို့ ကွန်မြူနစ်တဲ့

"ဘုန်းကြီးက လွတ်လပ်ရေး မရခင်ကတည်းက ကြိုတင်စဉ်းစားထားတယ်၊ တိုင်းပြည်မှာ စီးပွားရေးတွေ ပျက်ပြားကုန်ပြီ၊ ကိုယ်ကျင့်စာရိတ္တတွေလဲ ယိုယွင်းကုန်ပြီ၊ ဘုန်းကြီးကျောင်းတွေမှာလဲ သာသနာတော်ရဲ့ အညွန့်အညှောက်တွေ ခြောက်သွေ့ကုန်ပြီ၊ ကြာလျှင် ပို၍ ဆိုးတော့မယ်၊ နောင်ဤအဖြစ်မျိုးတွေ မကြုံရဖို့ ကျောင်းသားမရှိ, ကိုရင်မရှိ, ဦးပဥ္စင်းမရှိ အဖြစ်မျိုးသို့ ရောက်မှာမြင်လို့ ယခုနှယ်က ကြိုတင်၍ တတ်နိုင်သမျှ ကာကွယ်ဖို့ရယ်, ပြုပြင်ဖို့ရာရယ်, ဘာသာရေးအတွက် နိုင်ငံမှာ မကုန်သင့်တာတွေ အပိုမကုန်ရအောင်ရယ်, တာဝန်ပိုပြီး မလေးရအောင်ရယ်ဆိုပြီး...

၁။ ဘုရားပုထိုးစေတီတွေ ရှိပြီးသားနေရာမှာ ထပ်မံမတည်သင့်ဘူးလို့ ရေးခဲ့တယ်, ဒါ ကွန်မြူနစ်တဲ့၊

၂။ ဘုန်းကြီးပျံတွေကို ရက်ရှည်မထားသင့်, အကုန်အကျတွေများတဲ့ ပွဲကြီးလမ်းကြီးတွေ မလုပ်သင့်လို့ ရေးခဲ့တယ်, ဒါ ကွန်မြူနစ်တဲ့၊

၃။ အလှူပွဲတွေမှာ ဂုဏ်ပကာသနတွေက များနေတယ်၊ ဒါပြုပြင်ရမယ်လို့ ရေးခဲ့တယ်၊ ဒါ ကွန်မြူနစ်တဲ့၊

၄။ ဘုန်းကြီးတွေမှာ အလှူတွေက ပေါလွန်းတော့ ဟိုလိုက်ရ ဒီလိုက်ရနဲ့ ကလေးတွေ စာသင်ပျက်တယ်, အဲဒါတွေလဲ ပြုပြင်ကြပါလို့ ရေးခဲ့တယ်, ဒါ ကွန်မြူနစ်တဲ့၊

၅။ ကထိန်ခေတ်မှာ ခင်းလိုက်တဲ့ ကထိန်တွေ, ကထိန်က တော်ရုံရယ်, အပျော်အပါးတွေက ငွေကုန်များလွန်းတယ်။

ဘုန်းကြီးတို့ ဒီအမရပူရမြို့တွင်ပဲ ကထိန်ခေတ်



"ပြုပြင်ရေးစာတွေရေးလို့
ဘုန်းကြီးကို ကွန်မြူနစ်တဲ့"



ဂျပန်အမျိုးသားရဟန်း
ကိုသစ္စာ (ဝဲစွန်)

တစ်ခေတ် ကုန်ကျတဲ့ငွေတွေဟာ မနည်းဘူး၊ အပို ကုန်ကျငွေတွေအများကြီး၊ အဲဒီ အပိုငွေတွေကိုစုပြီး (တစ်နှစ်စာလောက်ပဲဖြစ်ဖြစ်) စာသင်ကျောင်း ဆောက်မယ် (သို့မဟုတ်) ဆေးရုံကိုလှူမယ်ဆိုရင် ဘယ်လောက် ကျေးဇူးများလိုက်မလဲ၊ အခုတော့ အရေ မရ, အဖတ် မပါ, အကာ အဖြစ်နှင့် အနှစ် မပါဘဲ ပျောက်ပျက်ကုန်ရတယ်၊ ဒါတွေကို အားလုံး ပြုပြင်ကြပါလို့ ရေးခဲ့တယ်, ဒါ ကွန်မြူနစ်တဲ့။

အေး-စွပ်စွဲကြ, စွပ်စွဲကြ, အဲလို စွပ်စွဲခဲ့ကြတာ အခုတော့ ညည်းကုန်ကြပြီလေ၊ ဘုန်းကြီးတွေ ညည်းကုန်ကြပြီ၊ သူတို့ ကျောင်းတွေမှာ ဆွမ်းခံ ပေးမယ့် ကျောင်းသားမရှိလို့တဲ့၊ ကိုရင်တွေလဲ မရှိ တော့လို့တဲ့၊ အင်း တော်တော်ကြာ သူတို့ပါ မရှိမှာ။

(၃၀ ခု မုန်းဆုတ် ၁၂ ရက်, နံနက်ဩဝါဒ)

## စေတနာတွေများစွာနှင့်

ဆရာတော်က "အနာဂတ်သာသနာရေး"ကျမ်း စာကို ရေးရာတွင် စေတနာတွေများစွာ ထား၍ ရေးသားခဲ့သည်ဟုလည်း မိန့်ဆိုနေပြန်၏၊ "အဲဒီ တုန်းက အနာဂတ်သာသနာကို ရေးသားတာ တခြားနိုင်ငံတွေနှင့် ယှဉ်ပြိုင်နိုင်အောင်လို့ ရည်ရွယ် ရေးတာ၊ သာသနာဘက်ကို ကြည့်ရင်လဲ ပိပိရိရိ စနစ်တကျရှိစေဖို့အတွက် ဂုဏ်တက်နေဖို့ရေးတာ၊ ဒီနိုင်ငံက တခြားနိုင်ငံတွေကို စီးပွားရေး, ပညာရေး, ကျန်းမာရေး စသည်တွေ မမီတောင်မှ ကိုယ်ကျင့် စာရိတ္တနှင့် အေးချမ်းမှုမှာတော့ သူတို့နှင့် မယှဉ် သာအောင် ဖြစ်နေဖို့ ကြိုးစားပြုပြင်ကြဖို့ရေးတာ။

ကမ္ဘာကလာကြည့်လျှင် "မြန်မာတွေဟာ အေး ချမ်းပါတယ်၊ စိတ်နေစိတ်ထား မြင့်မားပါပေတယ်၊ သူတို့ ကိုးကွယ်နေတဲ့ ရဟန်းသံဃာတော်များကလဲ စည်းကမ်းကြီးမားကြပေတယ်၊ ဣန္ဒြေသိက္ခာရှိကြ, ငြိမ်သက်တည်ကြည်တော်မူကြပါပေတယ်၊ ငြိမ်း ချမ်းမှုလည်း ရှိကြပါပေတယ်"လို့ ချီးမွမ်းရလောက် အောင် ဖြစ်စေချင်လို့ ရေးတာဟုလည်း မိန့်မြွက် နေပြန်သည်၊ သို့သော် အချို့ပုဂ္ဂိုလ်တို့က ဆရာ တော့် စေတနာ အမှန်ကို မပြည့်အဝ မသိခဲ့ကြချေ။

ဤ "အနာဂတ်သာသနာရေး"ကျမ်းစာဖြင့် ဖြစ် စေချင်သလောက် ဖြစ်မလာသော်လည်း ဖြစ်သင့် သလောက်ကား ဖြစ်ပေ၏၊ အချည်းနှီး အကျိုးမဲ့ ကား မဟုတ်ပါပေ၊ ပြုပြင် ကြိုးစားလိုသောပုဂ္ဂိုလ် တို့အတွက် အထောက်အကူများစွာ ဖြစ်၍ ကျေးဇူး များလျက် ရှိပေသည်။

## လှိုင်းဂယက်ထခဲ့သောကျမ်းစာ
## မြဂူကို ပွတ်ခါမှ ပို၍ ပြောင်လာ

"အနာဂတ်သာသနာရေး"ကျမ်းစာသည် ပြုပြင် ရေး ရှေ့ဆောင်ကျမ်းစာ ဖြစ်၏၊ မူဟောင်းကို ပြု ပြင်၍ ခေတ်နှင့် အံဝင်အောင် ပြောင်းလွဲခြင်း အလုပ်သည် လွယ်ကူသောအလုပ် မဟုတ်သည်ကို ကား ဆရာတော်က ကြိုတင်သိထားပြီး ဖြစ်ပါ၏၊ သို့သော်လည်း တာဝန်သိသူမှာ တာဝန်ရှိသည့် အလျောက် မနေသာပါ၊ ဒုတိယ ကမ္ဘာစစ်ကြီး ကြောင့် ယိုယွင်းခဲ့သည်တို့ကို ကမ္ဘာအရပ်ရပ်၌ ကိုယ်စီကိုယ်င တက်ဟက်ကြွကြွနှင့် ပြုပြင်ကြဖို့ရန် စိုင်းပြင်းနေကြပြီ။

ထို့ကြောင့် ဆရာတော် အရှင်ဇနကာဘိဝံသ ကလည်း ဘာသာရေး သာသနာရေးဘက်တွင် ယိုယွင်းနေသည်တို့ကို ပြုပြင်ဖို့ရန် အချက်ကျကျ အကွက်ကျကျ သဘာဝကျအောင် ထောက်ပြခဲ့ သည်၊ ပြုပြင်ကြဖို့ရန် "အနာဂတ်သာသနာရေး" ကျမ်းစာဖြင့် လမ်းညွှန်ခဲ့လေသည်။

ဤသည့် လုပ်ငန်းကြောင့် သူ့အပေါ်တွင် အရာရာ၌ (ယောနိသော မနသိကာရ) သင့်တော် သော သဘောမထားနိုင်ခဲ့ကြသည့် ပုဂ္ဂိုလ်တစ်စုက အကောင်းမမြင်ခဲ့ကြပေ။

"ဆရာလုပ်သည်"ဟုဆိုကာ အပြစ်ရှာကြသည်၊ သဘောတူရာတို့ကို စုစည်း၍ "ဤစာအုပ်ကို သပိတ်မှောက်ရမည်"ဟုပင် တစ်နေရာ၌ လှုံ့ဆော်စည်းဝေးကြသတတ်။

"အနာဂတ်သာသနာရေး"ကျမ်းစာကား ထိုသို့ ပြုလုပ်ခါမှ ပို၍ပင် လူသိများဖို့ရာ ဖြစ်လာလေတော့သည်၊ "မြေဂူကို ရွှံ့ဖြင့် ပွတ်ခါမှ ပို၍ ပြောင်လာသလို" ပို၍ သိချင် ပို၍ ဖတ်ချင် ဖြစ်လာကြတော့၏၊ လှုပ်လှုပ်ရှားရှား လှိုင်းဂယက်များထသလို ဖြစ်၍ လာတော့သည်၊ ဤအခြေအနေတို့ကို ကြိုတင် တွက်ဆထားပြီး ဖြစ်၍ စတင်ထုတ်ဝေစဉ်ကပင် ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်အနေဖြင့် မထုတ်ဝေစေဘဲ အသင်းအဖွဲ့အနေဖြင့် ထုတ်ဝေစေခဲ့သည်။

**မှတ်ချက်။** ။ ၁၃၁၁ ခု(၁၉၄၉ ခု)နှစ် ပထမဦးဆုံး အကြိမ် စတင်ထုတ်ဝေစဉ်က "မန္တလေးမြို့ သာသနာတော်လုံးဆိုင်ရာ ဗုဒ္ဓဘာသာဗဟိုအဖွဲ့ကြီး"အနေဖြင့် ထုတ်ဝေခဲ့သည်၊ အမရပူရမြို့ နယူးဘားမား ပုံနှိပ်တိုက်က ရိုက်ခဲ့၏၊ အုပ်ရေ ၃၀၀၀ ဖြစ်သည်၊ ဒုတိယအကြိမ်တွင် "ရန်ကုန်မြို့ ဝိုင်အမ်ဘီအေအသင်းကြီးနှင့်မန္တလေးမြို့ သာသနာတော်လုံးဆိုင်ရာဗုဒ္ဓဘာသာဗဟိုအဖွဲ့ကြီး"တို့၏ အနေဖြင့် ထုတ်ဝေခဲ့သည်၊ ဝိုင်အမ်ဘီအေ စာပေဖြန့်ချိရေး အဖွဲ့ငယ်မှ ဒကာ ထိန်ဝင်းက တာဝန်ယူသည်၊ ၁၃၁၃ (၁၉၅၁)ခုနှစ်တွင် ဟံသာဝတီ စာပုံနှိပ်တိုက်၌ ရိုက်နှိပ်၏၊ အုပ်ရေ ၁၀၀၀၀ ရိုက်နှိပ်ရာ လေးလေအတွင်း ပြိုက်ခနဲ ကုန်သွားခဲ့သည်၊ ဤ ဒုတိယ အကြိမ်ရိုက်တွင် (ကမ္ဘာ့ကုလသမဂ္ဂ အတွင်းရေးမှူးချုပ်လောင်း) ဦးသန့်၏ အမှာစာပါ၏၊ ဦးသန့်က...

"အရှင်ဇနကာဘိဝံသ၏ (အနာဂတ်သာသနာရေး) ကျမ်းသည် တကယ့် တိုင်းပြု ပြည်ပြုကျမ်းတစ်ဆူ ဖြစ်ပေသည်၊ ဗုဒ္ဓဘာသာကို သက်ဝင်ယုံကြည်သူတို့သာ မဟုတ်၊ အခြား ဘာသာဝင်များသည်လည်း ဤကျမ်းကို ဖတ်ရှုရလျှင် အလွန်အကျိုးများနိုင်ပေသည်၊ ထိုကျမ်းတွင် ဗုဒ္ဓဘာသာ၏ အခြေခံများဖြစ်သော ဗုဒ္ဓရတနာအခန်း, ဓမ္မရတနာအခန်း, သံဃာရတနာအခန်းများကို ရှင်းလင်းပြတ်သားစွာ ရေးသားထား၍ မြန်မာပြည်သာသနာခန်းတွင် ပစ္စုပ္ပန်နှင့်အနာဂတ်တို့ကို ပိုင်းခြားဝေဖန်ထားသည်။

ရေးသားပုံမှာ ခေတ်နှင့်လျော်ညီစွာ အလွန်ခက်ခဲ သိမ်မွေ့လှသော တရားတော်များကို လူပြိန်းနားလည်လွယ်အောင် အရှင်းဆုံးသော စကားများဖြင့် ပြုစုထားသောကျမ်း ဖြစ်၏။

သို့ဖြစ်၍ အနာဂတ်ဗုဒ္ဓသာသနာရေးကို စိတ်ဝင်စားသူတိုင်းပင် ဤကျမ်းကို လက်မလွှတ်တမ်း ဖတ်ရှုသင့်ပေသည်။

(ပုံ) မောင်သန့်
အတွင်းဝန်
ပြန်ကြားရေးဝန်ကြီးဌာန
၁၃၁၂ ခု တန်ခူးလဆန်း(၄)ရက်
၁၉၅၁ ခု ဧပြီလ (၁၀)ရက်။



"အနာဂတ်သာသနာရေး"စာအုပ် ဖြစ်မြောက်ရေးအတွက် စီစဉ်လျက် တတိယအကြိမ်တွင် ... "မန္တလေးမြို့ သာသနာတော်လုံးဆိုင်ရာ ဗုဒ္ဓ ဘာသာဗဟိုအဖွဲ့ကြီး"အနေဖြင့်ပင် ရိုက်ပြန်၏၊ ၁၃၁၄ ခု (၁၉၅၂ ခု)နှစ်က ဖြစ်သည်၊ မန္တလေးမြို့

ပိဋကတ်တော် ပြန့်ပွားရေးပုံနှိပ်တိုက်တွင် ရိုက်နှိပ်၏၊ အုပ်ရေ ၅၀၀၀ ဖြစ်သည်။

စတုတ္ထအကြိမ် အမှတ် ၁၃၈ ဗိုလ်ချုပ်ဈေး ဗုဒ္ဓဘာသာယဉ်ကျေးမှုအဖွဲ့ ရန်ကုန်အနေဖြင့် ရိုက်နှိပ်၏၊ ၁၃၁၅ ခု (၁၉၅၃ ခု)နှစ်က ဖြစ်သည်၊ အုပ်ရေ ၁၀၀၀၀ ဖြစ်သည်။

ပဉ္စမအကြိမ်တွင် အမရပူရမြို့ နယူးဘားမားပိဋကပုံနှိပ်တိုက်တွင် ရိုက်နှိပ်သည်၊ ၁၃၂၈ ခု (၁၉၆၆ ခု) နှစ်က ဖြစ်သည်၊ အုပ်ရေ ၅၀၀၀ ဖြစ်သည်။

ဆဋ္ဌမအကြိမ်တွင် လွင်ပုံနှိပ်တိုက် (၈၂-လမ်းမန္တလေး)မှ ရိုက်နှိပ်သည်၊ ၁၃၃၇ ခု တပေါင်းလ (၁၉၇၆ ခု)နှစ်က ဖြစ်၏၊ အုပ်ရေ၂၅၀၀ ဖြစ်သည်။

သတ္တမကြိမ်တွင် နိုင်ငံတော် သာသနာရေးဦးစီးဌာန ပုံနှိပ်တိုက်၌ နိုင်ငံတော် သာသနာရေးဦးစီးဌာန၏ အကူအညီကို ယူကာ အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက် နာယကဆရာတော်တို့၏ ကပ္ပိယကာရကများအနေဖြင့် ရိုက်နှိပ်၏၊ ၁၃၄၁ ခု(၁၉၇၉ ခု)နှစ်က ဖြစ်သည်၊ အုပ်ရေ ၁၀၀၀၀ ဖြစ်သည်။

## မေတ္တာအင်အားကို အသုံးပြုရခြင်း

### မေတ္တာကွန်ရက် ဖြန့်ကြက်ပါ

၁၃၂၉ ခု နယုန်လ (၁၉၆၇ ခု ဇွန်လ)ထဲက ဆန်ဈေး စပါးဈေးများ တရိပ်ရိပ် ထိုးတက်သွား၍ တစ်နိုင်ငံလုံး ထိတ်ထိတ်ပျာပျာ ဖြစ်လိုက်ကြရ၏၊ ထိုနှစ်ဝါတွင်းက ဂန္ဓာရုံ၌ သံဃာ ၂၀၆ ပါး ရှိခဲ့ရာ ဆရာတော်မှာ ကျွေးမွေးရေးအတွက် အတော်ကလေး ရင်လေးသွားခဲ့ရသည်၊ သို့ရာတွင် ရတနာသုံးပါး၏ ဂုဏ်ကျေးဇူးကြောင့်ဟု ဆိုရမည်လော၊ ထူးထူးကဲကဲ ဆင်းရဲဒုက္ခ မတွေ့လိုက်ရဘဲ အခက်အခဲကို ကျော်လွှားနိုင်ခဲ့ရ၏၊ နောက်တစ်နှစ် ၁၃၃၀ ခု (၁၉၆၈ ခု) ဝါတွင်း၌ ရဟန်း ၈၅ ပါး, သာမဏေ ၁၄၀, ပေါင်း ၂၂၅ ပါး ရှိသဖြင့် ဦးရေတိုးလာသောကြောင့် ပို၍စိုးရိမ်ရပြန်သည်၊ ထိုအခါ "စတုရာရက္ခတရား လေးပါး"တွင် ဗုဒ္ဓါနုဿတိနှင့် မေတ္တာကို အထူးအားကိုးရသော လက်နက်အဖြစ် စွဲကိုင်ကြရတော့သည်။

သူတော်ကောင်းတို့မည်သည်အရေးကြုံလာလျှင် မေတ္တာသာလျှင် လက်နက်မဟုတ်ပါလော၊ ဆရာတော်သည် အောက်ပါအတိုင်း အဓိဋ္ဌာန်တိုင်တည်၏၊ "ဤကဲ့သို့ သံဃာတော်များကို အတွင်းအပြင် တင့်တယ်အောင် ပြုပြင်နေခြင်းသည် မိမိအတွက် ကွက်ကွက်ကလေးမျှ မဟုတ်ပါ၊ စင်စစ်သော်ကား တစ်သာသနာလုံးအတွက် မျှော်မှန်းလျက် ကျက်သရေ ရှိအောင် ပြုပြင်နေရခြင်းသာ ဖြစ်ပါ၏၊ ဤသာသနာဖြင့် ဘုရားကို ပူဇော်ပါ၏၊ ဤကျောင်းတိုက်ကိုလည်း ဘုရားအား လှူဒါန်းပါသည်၊ ဤအလုပ်ကို ကျေနပ်ကြသော လူနတ်ဗြဟ္မာ သတ္တဝါအများ ကမ္ဘာသူ ကမ္ဘာသားတို့သည် အားပေးကြကုန်လော့၊ ကူညီကြကုန်လော့၊ ကျွန်ုပ်တို့၏ မေတ္တာဓာတ်အားသည် ပတ်ဝန်းကျင် လူနတ်ဗြဟ္မာ သတ္တဝါအများ ကမ္ဘာသူ ကမ္ဘာသားတို့နှင့်တစ်သားတည်း ဖြစ်ကြပါစေသတည်း"ဟု အဓိဋ္ဌာန်၍ တိုင်တည်သည်။

## လက်တွေ့ မေတ္တာပို့သကြပုံ

ဤသို့ တိုင်တည်ပြီးနောက် နံနက်စောစောတိုင်း ဩဝါဒ အပြီးတွင် ဆရာတော် ကိုယ်တိုင် သံဃာတော်များနှင့် အတူ ပြိုင်တူ မေတ္တာ ပို့သကြ၏၊ မေတ္တာဓာတ်အားကို အရပ်များသို့ လှည့်ပတ်ဖြန့်၏၊ မည်သို့ မည်ပုံ ဖြန့်ကြသနည်း၊ ဆရာတော်နှင့်တကွ သံဃာတော်များ အားလုံး မတ်တတ်ရပ်, အရှေ့ဘက်သို့ မျက်နှာလှည့်, လက်ညှိုးကိုယ်စီ အရှေ့အရပ်ကို ထိုးကြလျက်...

၁။ **အရှေ့အရပ်၌**နေကြသော ကမ္ဘာသူ ကမ္ဘာသား သတ္တဝါအများတို့သည် ဘေးရန် ကင်းကွာ, ကျန်းမာ ချမ်းသာကြပါစေ။

အားလုံး အရှေ့တောင်ဘက်သို့ မျက်နှာလှည့်,

လက်ညှိုးထိုးကြလျက်...

၂။ **အရှေ့တောင်အရပ်၌** နေကြသော ကမ္ဘာသူ ကမ္ဘာသား သတ္တဝါအများတို့သည် ဘေးရန်ကင်းကွာ, ကျန်းမာ ချမ်းသာကြပါစေ။

အားလုံးတောင်ဘက်သို့ မျက်နှာလှည့်, လက်ညှိုးဖြင့် ကိုယ်စီထိုးကြလျက်...

၃။ **တောင်အရပ်၌**နေကြသော ကမ္ဘာသူ ကမ္ဘာသား သတ္တဝါအများတို့သည် ဘေးရန်ကင်းကွာ, ကျန်းမာ ချမ်းသာကြပါစေ။

ဤသို့ ပြိုင်တူဆို၍ မေတ္တာပို့ကြသည်၊ အထုအထည်နှင့် စုပေါင်းထားသောကြောင့် မေတ္တာ အင်အားလည်း ပိုမို ကြီးမားရမည်မှာ အမှန်ဖြစ်၏၊ ဤနည်းအတိုင်း လက်ယာရစ်လှည့်ကာ ဆိုင်ရာ ဆိုင်ရာ အရပ်မျက်နှာတို့သို့ မျက်နှာမူ, လက်ညှိုးထိုးကြလျက်...

၄။ **အနောက်တောင်အရပ်၌**နေကြသော...

၅။ **အနောက်အရပ်၌**နေကြသော...

၆။ **အနောက်မြောက်အရပ်၌**နေကြသော...

၇။ **မြောက်အရပ်၌**နေကြသော...

၈။ **အရှေ့မြောက်အရပ်၌**နေကြသော...

၉။ **အရှေ့အရပ်၌**နေကြသော... (မြမြပတ်မိအောင် ထပ်ဆိုသည်။)

၁၀။ **အထက်အရပ်၌**နေကြသော...

၁၁။ **အောက်အရပ်၌**နေကြသော ကမ္ဘာသူ ကမ္ဘာသား သတ္တဝါအများတို့သည် ဘေးရန် ကင်းကွာ, ကျန်းမာ ချမ်းသာကြပါစေ။

## မေတ္တာစွမ်းအား ကြီးမား

ဤသို့လျှင် အရပ်ဆယ်မျက်နှာရှိ သတ္တဝါတို့ အပေါ်၌ မေတ္တာဓာတ်အားကို ပို့လွှတ်ကြ၏၊ မေတ္တာကွန်ရက်ဖြင့် ဖြန့်ကြက် လွှမ်းခြုံလိုက်ကြသည်၊ အရပ်မျက်နှာတစ်ခု တစ်ခု အပေါ်တွင် အာရုံစူးစိုက်၍ မေတ္တာပို့လွှတ်ကြပုံမှာ လက်နှိပ်ဓာတ်မီးကို မျက်နှာဝ စု၍ အလင်းရောင်အား ကောင်းအောင် ပြုပြီးမှ တစ်နေရာတည်းကို ကွက်၍ ထိုးလိုက်သလို ဖြစ်တော့၏၊ သံဃာတွေက များသဖြင့် မေတ္တာအထုအထည်အားလည်း ပို၍ ကောင်းပါလိမ့်မည်၊ ထိုအခါ လက်နှိပ်ဓာတ်မီး အလင်းအားမျှမကဘဲ ညအခါ ရေပြင်၌ သွားကြသော သင်္ဘောကြီးများမှ ဆလိုက်မီးမောင်းကြီးများ လှည့်ပတ်ထိုးသည့်ပမာ ဖြစ်ပါပေလိမ့်မည်၊ (ယခုအခါတွင်ကား သံဃာတော် တစ်ထောင်ကျော်၏ မေတ္တာထုထည်များဖြစ်၍ ပိုမိုပြီး အားကောင်းဖွယ် ဖြစ်ပါ၏။)

ဤနေရာ၌ မြတ်စွာဘုရားက ပဉ္စဝဂ္ဂီတို့ထံ အဦးဆုံးလာသော အခါက်၌ မေတ္တာဓာတ် ပို့လွှတ်ပုံကို ဖော်ပြလိုပါသည်။

**၁။ ဘဂဝါ တေသံ စိတ္တာစာရံ ဉတွာ သဗ္ဗသတ္တေသု အနောဓိသကဝသေန ဖရဏသမတ္ထံ မေတ္တစိတ္တံ သံခိပိတွာ ဩဓိသကဝသေန မေတ္တစိတ္တေန ဖရိ။**

**၂။ ဘဂဝါ အပရိမာဏေသု စက္ကဝါဠေသု အနန္တသတ္တေသု ဖရဏာရဟံ မေတ္တံ ဧကသ္မိံ ယေဝ နာဠာဂိရိမှိ ဖရိ။**

၁။ မြတ်စွာဘုရားသည် ထိုပဉ္စဝဂ္ဂီတို့၏ စိတ်ထားကို သိတော်မူ၍ (အရှင်ဂေါတမ လာလျှင် ခရီးဦးကြိုပြုမှု စ၍ဘာမျှ အရေးမပေးစတမ်းဟု ကတိကဝတ် ပြုထားလျက် မလေးစားသော အတွင်းစိတ်ကို သိ၍-ဟူလို၊) အလုံးစုံသော သတ္တဝါတို့အပေါ်၌ မည်သည့်သတ္တဝါအတွက်ဟု ရည်ညွှန်းပိုင်းခြားမှု မထားဘဲ အကုန်လုံး အပေါ် ဖြန့်လွှမ်းနိုင်သော မေတ္တာစိတ်ကို အကျဉ်းချုံး၍ ရုံးစုလျက် "သီးသန့် ပိုင်းခြားသတ်မှတ်သောအားဖြင့်" ပဉ္စဝဂ္ဂီတို့အပေါ်မှာသာလျှင် မေတ္တာဖြန့်ဖိထားတော်မူလိုက်ပြီ။

၂။ မြတ်စွာဘုရားသည် မရေမတွက်နိုင်သော များသော စကြဝဠာတို့၌ရှိသော သတ္တဝါအနန္တတို့အပေါ်၌ ဖြန့်အောင်ဖြန့်နိုင်သော မေတ္တာစိတ်ကို နာဠာဂိရိ ဆင်ဆိုးကြီးတစ်ကောင်တည်းအပေါ်၌သာလျှင်စုပြုံဖြန့်လွှမ်းတော်မူလိုက်၏။

---

၁။ ဗုဒ္ဓဝံသ အဋ္ဌကထာ - ၃၄၃။ ၂။ အပဒါန အဋ္ဌကထာ - ၁၃၇

ဤသို့ ဖြန့်နိုင်စွမ်းရှိသော မေတ္တာဓာတ်အား တွေကို စု၍ ကျုံ့၍ တစ်နေရာတည်း၌ စိုက်ပြီး ပို့လွှတ်သောအခါ ပဋ္ဌဝဂ္ဂိတို့လည်း မနေနိုင်, ကိုယ့်ကတိ ကိုယ်ဖျက်၍ ခရီးဦးကြိုပြုခြင်း စသည်ကို ပြုလုပ်မိတော့၏။

တစ်ဖန် နာဠာဂီရိဆင်ဆိုးကြီးသည်လည်း မြတ်စွာဘုရား၏ ခြေတော်ရင်းတွင် ရှိသေစွာ တုပ်ဝပ်ရလေ၏။

အနောဓိသမေတ္တာမှ ဩဓိသမေတ္တာအဖြစ်သို့ စု၍ ကျုံ့၍ ကွက်၍ မေတ္တာဓာတ်လွှတ်လိုက်သော အခါ "နေရာအနှံ့အပြား များစွာကို ဖြန့်၍ လှည့်ပတ်ထိုးနိုင်သော မီးဆလိုက်ကြီးများ၏ အရောင်ကို စုလျက် တစ်နေရာတည်း၌ ကွက်၍ ဖိတင်ထိုးထားသကဲ့သို့ အဆပေါင်းများစွာ အားကောင်းသွားပါလိမ့်မည်။

ဘုရားရှင်ကိုယ်တော်မြတ် ထိုစဉ်က မေတ္တာပို့ရာမှာ မနောကံသက်သက်ဖြင့်သာ အသံတိတ် ပို့ခြင်းဖြစ်ပါလိမ့်မည်။

ယခုအခါတွင်ကား ကာယကံမေတ္တာ, ဝစီကံမေတ္တာ, မနောကံမေတ္တာ သုံးမျိုးရှိရာတွင် မနောကံပေါ်လွင်အောင် နှုတ်ကပါ ကူညီရွတ်ဆိုပြုခြင်း ဖြစ်ပါသည်။

## ငါးရာနှစ်ဆယ်ရှစ်သွယ်မေတ္တာ

(၁)မေတ္တာပို့သခြင်းသည် အနောဓိသမေတ္တာပို့, ဩဓိသမေတ္တာပို့ဟူ၍ နှစ်မျိုးရှိ၏၊ ထိုတွင် မည်သူမည်ဝါဟု မပိုင်းခြားဘဲ "သဗ္ဗေ သတ္တာ, သဗ္ဗေ ပါဏာ, သဗ္ဗေ ဘူတာ, သဗ္ဗေ ပုဂ္ဂလာ, သဗ္ဗေ အတ္တဘာဝပရိယာပန္နာ"ဟု သာမန်အားဖြင့် ပို့လျှင် "အနောဓိသမေတ္တာပို့"ဟု ဆိုရ၏၊ ပုဂ္ဂိုလ်ငါးဦး ဖြစ်သည်၊ (မောင်ဖြူ, မောင်ညို, မောင်နီ စသည်ဖြင့် သိသိသာသာ ပိုင်းခြားသလို) "သဗ္ဗာ ဣတ္ထိယော, သဗ္ဗေ ပုရိသာ, သဗ္ဗေ အရိယာ, သဗ္ဗေ အနရိယာ, သဗ္ဗေ ဒေဝါ, သဗ္ဗေ မနုဿာ, သဗ္ဗေ ဝိနိပါတိကာ"ဟု ပိုင်းခြားပို့လျှင် "ဩဓိသမေတ္တာပို့" ဟု ခေါ်ရသည်၊ ပုဂ္ဂိုလ် ခုနစ်ဦး ရှိ၏၊ နှစ်မျိုးပေါင်း ၁၂ ဦး ဖြစ်သည်၊ တစ်ဦး တစ်ဦး၏ နောက်တွင် "အဝေရာ ဟောန္တု, အဗျာပဇ္ဇာ ဟောန္တု, အနီဃာ ဟောန္တု, သုခီ အတ္တာနံ ပရိဟရန္တု"ဟု လေးခု လေးခု ဆက်တွဲ၍ မေတ္တာပွားရသည်၊ ထိုအခါ မေတ္တာပေါင်း (၁၂×၄) = ၄၈ မျိုး ဖြစ်လာရတော့၏၊ ဤသည်ကား မည်သည့် အရပ်၌ ရှိသော သတ္တဝါဟု သတ်မှတ်ခြင်း မရှိ၊ အခြေခံ မူလဘူတ အထည်ကိုယ် မေတ္တာပို့သမှုပင် ဖြစ်သည်။

ထိုမှတစ်ဆင့်တက်၍ တိတိကျကျ အရပ်ဒေသများနှင့်ပါ တွဲဖက် ပို့လိုလျှင် အရှေ့အရပ်၌ ၄၈ မျိုး, အရှေ့တောင်အရပ်၌ ၄၈ မျိုး, တောင်အရပ်၌ ၄၈ မျိုး, စသည်ဖြင့် အရပ်ဆယ်မျက်နှာအတွက် (၄၈×၁၀) = ၄၈၀ ဖြစ်လာနိုင်၏၊ မည်သည့် အရပ်ဒေသနှင့်မျှ မတွဲသော အခြေခံမူလဘူတဖြစ်သော မူရင်းသက်သက် ၄၈ မျိုးနှင့် ပေါင်းသော် "၅၂၈ သွယ် မေတ္တာ" ဖြစ်လာတော့၏။

## မေတ္တာရောင်ပြန်များ

ယခုအခါ အမရပူရ မဟာဂန္ဓာရုံ၌ ပို့သနေကြသော မေတ္တာသည် "မည်သည့်ပုဂ္ဂိုလ်"ဟု တိတိကျကျ မပိုင်းခြားဘဲ "ကမ္ဘာသူ ကမ္ဘာသား"ဟူ၍မျှ လောက်သာ သာမန်သုံးသပ်ပြီးလျှင် အရပ်ဆယ်မျက်နှာနှင့် ဟပ်ထားသော "အနောဓိသမေတ္တာပို့" ဟုပင် ဆိုရမည် ဖြစ်၏။

သို့သော်လည်း သံဃာထုအများစု၏ မေတ္တာအားသည် အရပ်မျက်နှာတစ်ခုတစ်ခု အပေါ်မှာ စု၍ ပြုံ၍ ကွက်၍ ထိုးထားသော မီးမောင်းကြီးများ ပမာဖြစ်သောကြောင့် အလွန်အင်အားကောင်း၍ အလွန်အစွမ်းထက်နေသည်ကို မျက်မြင်ကိုယ်တွေ့ တွေ့နေကြရပါသည်၊ လေးလေးပင်ပင် မေတ္တာပို့ခဲ့သော ထိုအချိန်မှ စ၍ ယခုချိန်တိုင်အောင် ထူးထူးခြားခြား မေတ္တာရောင်ပြန်များ ဟပ်လျက် နေကြပါသည်။

ထိုအချိန်မှ စ၍ ဤမှာဘက်တွင် ဆရာတော် ပြုလုပ်ချင်သော သာသနာပြုလုပ်ငန်းများ ပိုမိုအောင်မြင်လာခြင်း, ပစ္စည်း လေးပါး ပေါများ

(၁) ဩဓိမရိယာဒါ (အပိုင်းခြား) နှ ဩဓိ အနောဓိ၊ (ပဋိသမ္ဘိဒါမဂ္ဂ, ဋ္ဌ–၂၀၈)

မောက်လျှံလာခြင်း ဖြစ်သည်ဟု အများကပင် ပြောဆိုနေကြသည်၊ ယခုအခါတွင်ကား အချိန်ရလာပြီဖြစ်၍ မတ်တတ်မရပ်တော့ဘဲ ထိုင်လျှင်ပင် မေတ္တာပို့သကြတော့သည်။

ဤမေတ္တာပို့သမှုနှင့် ပတ်သက်၍ ပို့ပုံ ပို့နည်း„ အရပ် ဆယ်မျက်နှာနှင့် စပ်၍ ပို့ပုံ ပွားများပုံ, မေတ္တာပွားများ၍ရနိုင်သောအကျိုး ၁၁ မျိုး, ထိုပြင် အစုံအလင်ပွားသဖြင့် "၅၂၈သွယ်မေတ္တာ"ဖြစ်လာပုံတို့ကို အရှင်သာရိပုတ္တရာမထေရ်မြတ် ဟောတော်မူအပ်သော ပဋိသမ္ဘိဒါမဂ် ပါဠိတော် ယုဂနဒ္ဓဝဂ် မေတ္တာကထာ၌ တွေ့ရှိနိုင်ပါသည်။

**မှတ်ချက်– (အနောဓိသပုဂ္ဂိုလ်ငါးမျိုး)**

၁။ သဗ္ဗေ သတ္တာ-အလုံးစုံသော သတ္တဝါတို့သည်၊
၂။ သဗ္ဗေ ပါဏာ-အလုံးစုံသော အသက်ရှူရှိုက်သူတို့သည်၊
၃။ သဗ္ဗေ ဘူတာ-အလုံးစုံသော ထင်ရှားဖြစ်သူတို့သည်၊
၄။ သဗ္ဗေ ပုဂ္ဂလာ-အလုံးစုံသော ပုဂ္ဂိုလ်တို့သည်၊
၅။ သဗ္ဗေ အတ္တဘာဝပရိယာပန္နာ-အလုံးစုံသော ခန္ဓာကိုယ် အတ္တဘော ရှိသူတို့သည်။

**(ဩဓိသပုဂ္ဂိုလ်ခုနစ်မျိုး)**

၁။ သဗ္ဗာ ဣတ္ထိယော-အလုံးစုံသော မိန်းမ (အမသတ္တဝါ)တို့သည်၊
၂။ သဗ္ဗေ ပုရိသာ-အလုံးစုံသော ယောက်ျား(အထီးသတ္တဝါ)တို့သည်၊
၃။ သဗ္ဗေ အရိယာ-အလုံးစုံသောအရိယာတို့သည်၊
၄။ သဗ္ဗေ အနရိယာ-အလုံးစုံသော ပုထုဇဉ်တို့သည်၊
၅။ သဗ္ဗေ ဒေဝါ-အလုံးစုံသော နတ်ဗြဟ္မာတို့သည်၊
၆။ သဗ္ဗေ မနုဿာ-အလုံးစုံသော လူတို့သည်၊
၇။ သဗ္ဗေ ဝိနိပါတိကာ-အလုံးစုံသော အပါယ်ဘုံသားတို့သည်။

၁။ အဝေရာ ဟောန္တု-ဘေးရန် ကင်းကြပါစေ။
၂။ အဗျာပဇ္ဈာ ဟောန္တု-စိတ်ဆင်းရဲခြင်း ကင်းကြပါစေ။
၃။ အနီဃာ ဟောန္တု-ကိုယ်ဆင်းရဲခြင်း ကင်းကြပါစေ။
၄။ သုခီ အတ္တာနံ ပရိဟရန္တု-ကိုယ်စိတ်နှစ်ဖြာ ချမ်းသာစွာဖြင့် မိမိတို့ ခန္ဓာဝန်ကို ဆောင်ရွက်နိုင်ကြပါစေ။

## ဂျပန်အမျိုးသား အိုကူဒိုင်ယာ (ကိုသစ္စာ)
## ဘုန်းတော်ကြီးများဘဝ သိလို၍

ဂျပန်အမည် အိုကူဒိုင်ယာ, မြန်မာအမည် ကိုသစ္စာသည် ၁၃၂၉ ခု တန်ခူးလ (၁၉၆၈ ခု ဧပြီလ)ထဲက အမရပူရ မဟာဂန္ဓာရုံသို့ ရောက်လာ၏၊ ရောက်လာရခြင်းအကြောင်းမှာ မြန်မာဘုန်းတော်ကြီးများ၏ ဘဝကို လေ့လာချင်၍ ကိုယ်တိုင်သက်န်းဝတ်လိုသောကြောင့် ဖြစ်သည်၊ သူသည် လွန်ခဲ့သော သုံးနှစ်က ရန်ကုန်တက္ကသိုလ်သို့ ပညာသင်ရန် ဂျပန်က စေလွှတ်ခြင်းခံရသူ ဖြစ်၏၊ သူသင်ယူရမည့် ဘာသာရပ်တို့မှာ မြန်မာနိုင်ငံ၏ စီးပွားရေး, စိုက်ပျိုးရေး, မွေးမြူရေး, ဘာသာစာပေနှင့် ရိုးရာယဉ်ကျေးမှုတို့ ဖြစ်သည်။

ရန်ကုန်တက္ကသိုလ်တွင် သုံးနှစ်ပညာသင်ကြားပြီးသောအခါ မြန်မာဘုန်းတော်ကြီးများ၏ဘဝ နေထိုင်ကျင့်သုံးမှုကို လေ့လာလိုသဖြင့် ကိုယ်တိုင် ဒုလ္လဘရဟန်းဝတ်ချင်ကြောင်း ဝန်ကြီးချုပ်ဟောင်း ဦးနုတို့အား ပြောကြားခဲ့၏၊ ကြီးကဲသူ ဆရာ ဆရာမတို့အားလည်း တိုင်ပင်ခဲ့၏၊ ထိုအခါ "အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်နှင့် သင့်လျော်မည်"ဟု ညွှန်ကြားကြသဖြင့် ရောက်လာရခြင်းဖြစ်ပေသည်။

မဟာဂန္ဓာရုံသို့ ရောက်အောင်ကား မန္တလေးတက္ကသိုလ်မှ ဦးမောင်မောင်တင် (မဟာဝိဇ္ဇာ)က ဦးဆောင်ခေါ်လာခဲ့ရ၏၊ ကိုသစ္စာသည် ဆရာတော်ကြီး၏ ခွင့်ပြုချက်အရ ပထမ သာမဏေပြုခွင့်ရ၏၊ နောက်မှ ရဟန်းအဖြစ်ကို ရရှိလေသည်၊ ကိုသစ္စာတို့၏ ဂျပန်နိုင်ငံ၌ မဟာယာနဗုဒ္ဓဘာသာဝင်တွေပေါများ၏၊ ထို့ကြောင့် ဆရာတော်ကြီးက ထေရဝါဒဗုဒ္ဓဘာသာကို များများဟောပြလေသည်၊ စင်စစ်ကား ကိုသစ္စာသည် မဟာယာနလည်း မဟုတ်, ထေရဝါဒလည်း မဟုတ်ခဲ့၊ ရှင်တိုဘာသာဝင်တစ်ဦးသာ ဖြစ်လေသည်၊ အိုကူဒိုင်ယာ(ကိုသစ္စာ)တဖြစ်လဲ

ရဟန်းတော် အရှင်ဓမ္မရက္ခိတသည် ဆရာတော်ကြီး ဟောပြသော နေ့စဉ် နံနက်ခင်းဩဝါဒကို တစ်လုံးမကျန် လိုက်၍ ရေးကူးမှတ်သား၏။

ဆရာတော်ကြီး ရေးသားသော စာပေများကိုလည်း ဖတ်ရှုသည်၊ သံဃာတော်များ၏ ဘဝနေထိုင်ကျင့်သုံးမှုကိုကား အထူးအားဖြင့် အသေးစိတ် လေ့လာ၏။

မဟာဂန္ဓာရုံကျောင်းတိုက်၏ နေ့စဉ်ဆောင်ရွက်စက်ပတ်လည်နေပုံကိုလည်း မှတ်သားကာ ကိုယ်တိုင်လည်း လိုက်နာခဲ့ပါသည်။

## လက်တွေ့ကျင့်မှ ပို၍ သိလာရ

အိုကူဒိုင်ယာသည် မိဘ ဘိုးဘွား အစဉ်အလာက ကိုးကွယ်ခဲ့သော ရှင်တိုဘာသာကိုပင် လက်ခံကျင့်သုံးကိုးကွယ်ခဲ့သူ ဖြစ်၏၊ ဘာသာရေးနှင့်စပ်၍ ထူးထူးထွေထွေ စဉ်းစားခြင်း မရှိခဲ့ပေ၊ သို့သော် အထက်တန်းတက္ကသိုလ်ပညာရပ်များကို သင်ကြား၍ စဉ်းစားဉာဏ်များ ရင့်သန်လာသောအခါ အရာရာတွင် လေးလေးပင်ပင် ဆင်ခြင်လာ၏၊ စဉ်းစားလာ၏၊ လက်တွေ့စမ်းသပ်ချင်လာ၏၊ သဘာဝမကျလျှင် ပယ်ချင်လာ၏၊ မှတ်ကျောက် တင်ခံနိုင်မှ လက်ခံချင်တော့သည်၊ ထို့ကြောင့် ရိုးရာယဉ်ကျေးမှုဘာသာရပ်ကို လေ့လာသောအခါ မိမိတို့ အစဉ်အလာက ကိုးကွယ်ခဲ့သော ဘာသာကိုပင် စိစစ်ဝေဖန်ရန် အကြံဖြစ်လာသည်၊ သို့နှင့် မြန်မာပြည်မှာ ရောက်နေခိုက် ဗုဒ္ဓဘာသာနှင့် မိမိတို့ ရှင်တိုဘာသာကို နှိုင်းယှဉ်လေ့လာလိုသောဆန္ဒ ပြင်းပြလာခဲ့ရာမှ ဒုလ္လဘရဟန်း ဝတ်သည်အထိ ရောက်လာရခြင်း ဖြစ်လေသည်၊ မူလက "ရှင်တိုဘာသာဝင်"တစ်ဦးဖြစ်ခဲ့သောအိုကူဒိုင်ယာ(ကိုသစ္စာ)သည် မြန်မာပြည်သို့ ရောက်ပြီးကာမှ ဗုဒ္ဓဘာသာကို ကိုယ်တိုင်ကိုယ်ကျ လေ့လာ၍ ကျင့်သုံးမိသောအခါ အယူအဆ ခံယူချက်တို့သည် တစ်မျိုး ပြောင်းလဲသွားတော့၏၊ လက်တွေ့ကျ၍ သဘာဝဆိုက်သော ဗုဒ္ဓဘာသာတရားတော်များကို မြတ်နိုးလာသည်၊ နှစ်သက်ကျေနပ်လာ၏၊ ကိုယ်တိုင်လည်း ကျင့်သုံးပြီးပြီ၊ ထို့ကြောင့် ယခုအခါ တိတိကျကျဆုံးဖြတ်၍ "ဗုဒ္ဓဘာသာဝင်"အဖြစ်ခံယူထားလေပြီ၊ ဗုဒ္ဓဘာသာရဟန်းတော်ဘဝဖြင့် သုံးပတ်ကြာ နေထိုင်ကျင့်သုံးပြီးလျှင် ရဟန်းဘဝမှ လူဝတ်လဲကာ ရန်ကုန်သို့ ပြန်ရောက်ပြီးနောက် (ပညာသင်ကိစ္စလည်း ပြီးစီးပြီ ဖြစ်၍) အမိနိုင်ငံ ဂျပန်သို့ ပြန်လေသည်၊ မဟာဂန္ဓာရုံကျောင်းတိုက်ကြီး၏ အကြောင်းကိုလည်း "မြန်မာဘုန်းတော်ကြီးကျောင်း"အမည်ဖြင့် စာအုပ်ငယ်တစ်အုပ် ပြုစုခဲ့လေ၏၊ ယင်းစာအုပ်ကို ဂျပန်နိုင်ငံ တိုကျိုတက္ကသိုလ်သို့ တင်ပြရာ ဆိုင်ရာအရာရှိတို့က "မြန်မာဘာသာ လေ့လာဖွယ်ရာ"သင်တန်းစာအုပ်အဖြစ် ပြဋ္ဌာန်းပေးခဲ့လေသည်။

---

**မှတ်ချက်။** ။ရှင်တိုဘာသာဟူသည် လူများကိုးကွယ်ကြသော ဘာသာကြီးလေးမျိုး (ဟိန္ဒူ၊ ဗုဒ္ဓဘာသာ၊ ခရစ်ယာန်၊ မူစလင်)နှင့် ဘာသာငယ်ခုနစ်မျိုး(ဂျူး၊ ဂျိန်း၊ ကွန်ဖြူးရှပ်၊ တာအို၊ ဆစ်ခ်၊ ရှင်တို၊ ဖာရစီ)တို့ ပေါင်း ၁၁ မျိုးရှိသည့်အနက် တစ်ခုအပါအဝင်ဖြစ်သည်။ ရှင်တိုဘာသာသည် ထာဝရဘုရားနှင့် သဘာဝ ဘုရားကိုးကွယ်မှု ပေါင်းစပ်ထားသော သဘာဝတရား ဖြစ်သည်၊ ရှေးခေတ်တွင် ဂျပန်လူမျိုးတို့ မူလကိုးကွယ်ခဲ့သောဘာသာဖြစ်သည်၊ ဂျပန်လို (ကာမိနိုမိကျိ)ဖြစ်ပြီး မြန်မာလို (လောကုတ္တရာလမ်းညွှန်)ဟု အဓိပ္ပာယ်ရ၏၊ ရှင်တိုဘာသာ၏ အယူအဆအရ ထာဝရဘုရားတစ်ဆူသာ ရှိသည်ဟု ယုံကြည်သည့်အပြင် သဘာဝ(သက်ရှိ၊ သက်မဲ့)ဘုရားကိုလည်း ကိုးကွယ်ကြသေး၏၊ သက်မဲ့အနေဖြင့် နေ၊ လ၊ နက္ခတ်တာရာ၊ မိုး၊ လေ၊ ရေ၊ မြေ၊ မီးတောင်၊ ကျောက်တောင်၊ ပင်လယ်များကို ကိုးကွယ်ကြပြီး သက်ရှိအနေဖြင့်မူ လူစွမ်းကောင်းများ၊ သူရဲကောင်းများကို "ကာမိ-မြင့်မြတ်သောနတ်"ဟု အမည်ပေးကာ ရှင်တိုဘုရားကျောင်းများဆောက်လုပ်၍ ကိုးကွယ်ကြ၏၊ ဗုဒ္ဓဘာသာတရားတော်အရကား ယင်းတို့အားလုံးသည် ကိုးကွယ်မှုအစစ်အမှန်မဟုတ်၊ ဤသဘောကို ဓမ္မပဒအဋ္ဌကထာ ၃-၁၅၆ အဂ္ဂိဒတ္တဗြာဟ္မဏဝတ္ထုတွင် တွေ့မြင်နိုင်၏၊ ကောသလမင်းကြီး၏ ပုရောဟိတ်ဟောင်း အဂ္ဂိဒတ္တပုဏ္ဏားကြီးသည် တောထွက် ရသေ့ပြု၍နေ၏၊ လာလာသမျှ လူအပေါင်းတို့အား "တောင်ကြီးတွေကို ကိုးကွယ်ကြ၊ တောကြီးတွေကို ကိုးကွယ်ကြ၊ ဥယျာဉ်ကြီးတွေ သစ်ပင်ကြီးတွေကို ကိုးကွယ်ကြ၊ ဒုက္ခအပေါင်းမှ လွတ်လိမ့်မည်"ဟု ဆုံးမလမ်းညွှန်လေ့ရှိ၏၊ တစ်နေ့တွင် ဘုရားရှင်ကြွလာတော်မူ၍ "န ခေါ အဂ္ဂိဒတ္တ တောနိ သရဏံ ဂတော သဗ္ဗဒုက္ခာ ပမုစ္စတိ၊ ဗုဒ္ဓံ ဓမ္မံ သံဃံ ပန သရဏံ ဂန္တွာ သကလဝဋ္ဋဒုက္ခာ ပမုစ္စတိ"။ "အဂ္ဂိဒတ္တ...အဲဒါတွေကို ပူဇော်သကိုးကွယ်နေသူသည် ဒုက္ခအပေါင်းမှ မလွတ်မြောက်နိုင်၊ ဘုရား တရား သံဃာကိုသာ ကိုးကွယ်မှ ဝဋ်ဒုက္ခအပေါင်းမှ လွတ်မြောက်နိုင်သည်"ဟု ဟောတော်မူထား၏၊ ထို့ပြင် ဂါထာဖြင့်လည်း ဟောတော်မူသေး၏။

၁။ ဗဟုံ ဝေ သရဏံ ယန္တိ, ပဗ္ဗတာနိ ဝနာနိ စ၊ အာရာမရုက္ခစေတျာနိ, မနုဿာ ဘယတဇ္ဇိတာ။

၂။ နေတံ ခေါ သရဏံ ခေမံ, နေတံ သရဏမုတ္တမံ၊ နေတံ သရဏမာဂမ္မ, သဗ္ဗဒုက္ခာ ပမုစ္စတိ။

၃။ ယော စ ဗုဒ္ဓဉ္စ ဓမ္မဉ္စ, သံဃဉ္စ သရဏံ ဂတော၊ စတ္တာရိ အရိယသစ္စာနိ, သမ္မပ္ပညာယ ပဿတိ။

၄။ ဧတံ ခေါ သရဏံ ခေမံ, ဧတံ တံ သရဏမုတ္တမံ၊ ဧတံ သရဏမာဂမ္မ, သဗ္ဗဒုက္ခာ ပမုစ္စတိ။

## တွယ်တာအောက်မေ့ တမြေ့မြေ့

အိုကူဒိုင်ယာ (ကိုသစ္စာ)သည် မဟာဂန္ဓာရုံ၌ ကြာကြာနေချင်လျက် နေခွင့်မရခဲ့၊ တာဝန်အရ အမိနိုင်ငံ ဂျပန်သို့ ပြန်ခဲ့ရလေသည်၊ ဂျပန်သို့ ပြန်ရောက်ပြီးမှ ရေးသားသော သူ၏ "မြန်မာဘုန်းတော်ကြီးကျောင်း" စာအုပ်တွင် မြန်မာပြည်က မဟာဂန္ဓာရုံကျောင်းတိုက်ကြီးကိုလည်းကောင်း, ဆရာတော်ဘုရားကြီးကိုလည်းကောင်း, သီတင်းသုံးဖော် သံဃာတော်များကိုလည်းကောင်း သံယောဇဉ်တွယ်မိနေ၍ အာရုံထဲတွင် ဖျောက်မရကြောင်း, လွမ်းလွမ်းဆွတ်ဆွတ် ဖြစ်နေမိကြောင်း, "ဘယ်တော့များမှ ပြန်လည် ဆုံတွေ့နိုင်ကြမည်လဲ"ဟု နေ့စဉ် အောက်မေ့ တမြေ့မြေ့ ဖြစ်နေမိကြောင်း ရေးသားထားသည်။

ထိုသံယောဇဉ်များကြောင့်ပေလော?၊ ကိုသစ္စာသည် မြန်မာနိုင်ငံဆိုင်ရာ ဂျပန်သံရုံးတွင် ... လက်ထောက် သံမှူးအဖြစ် ခန့်အပ်ခြင်းခံရကာ များမကြာမီတွင် သူရောက်ချင်နေသော မြန်မာပြည်သို့ ဒုတိယအကြိမ်အဖြစ် ရောက်လာခဲ့ရပြန်လေသည်၊ သို့ဖြစ်၍ သူ့အတွက် အလွန်နှစ်သက်ကျေနပ်မှု ရကာ မကြာ မကြာပင် အခွင့်သင့်တိုင်း မဟာဂန္ဓာရုံကျောင်းတိုက်သို့ ရောက်ရောက်လာတတ် လေသည်၊ သူနှင့် ပတ်သက်၍ အခြားသော ဂျပန် အမျိုးသားတို့ပါ ပူးတွဲပါ လာတတ်ကြလေသည်။

## ဗိုလ်မှူးချုပ်ဟောင်း အောင်ကြီး, ပန်တျာကျောင်းအုပ်ကြီး ဇနီးမောင်နှံ, သိမ်ဖြူဆရာတော် ဦးနာဂသေန, ရဟန်းပျိုဆရာတော် ဦးဓောတိက, ကြေးတိုင်မင်းကြီး ဦးသာမြ, တွေ့ကြဆုံကြ လျှောက်ထားကြ

၁၃၃၀ ခု သီတင်းကျွတ်လဆုတ် ၁၄ ရက် (၂၀-၁၀-၆၈) တနင်္ဂနွေနေ့က ဖြစ်သည်၊ နံနက် ၉ နာရီခွဲခန့်တွင် ဗိုလ်မှူးဟောင်း မြသောင်း မောင်းနှင်သော ဘောက်စ်ဝက်ဂွမ်ကားကလေးက ဆရာတော် အရှင်ဇနကာဘိဝံသတို့ ဆရာတပည့်တစ်စုကို သွက်လက်စွာ ပင့်ခေါ် သယ်ဆောင်သွားခဲ့၏၊ ကားထဲတွင် စာချဘုန်းကြီး ဦးစန္ဒောဘာသ, စာချဘုန်းကြီး ဦးကုဏ္ဍလာဘိဝံသတို့လည်း ပါကြ၏၊ ကားကလေးသွားရာသို့လိုက်ပါလာခဲ့ကြရာမကြာမီ မန္တလေးနန်းမြို့ရိုးကြီး၏ အရှေ့ဘက် ဝင်းခြံကျယ်ကြီးတစ်ခုအတွင်းသို့ ကွေ့ဝင်သွားသည်။

ဆင်ဝင်အောက်သို့ ထိုးရပ်လိုက်သောအခါ ခပ်ဝဝ လူရည်သန့်ပုဂ္ဂိုလ်ကြီးတစ်ဦးနှင့် ခပ်သွက်သွက် ရည်မွန်သော အမျိုးသမီးကြီးတစ်ဦးတို့က ဆီး၍ ခရီးဦးကြိုဆိုကြ၏၊ အိမ်ကြီးအပေါ် ထပ်သို့ ရောက်သောအခါ သွက်လက်ချက်ချာသော အမျိုးသမီးကြီးက..."တပည့်တော်တို့ ဆရာတော့်ကျောင်းကို သာသနာရေးဝန်ကြီး ဦးဝင်းနှင့်တုန်းကရော, သာသနာရေးဝန်ကြီး ဦးဘစောနှင့်တုန်းကရော ရောက်ဖူးပါတယ်ဘုရား၊ အရင်းအချာ ဒကာ ဒကာမ တွေလို့ မှတ်တော်မူပါ၊ ဗိုလ်မှူးချုပ် အောင်ကြီးလဲ မကြာမီ ရောက်လာပါမယ်ဘုရား"ဟု လျှောက်၏။

**ဆရာတော်။** ။ဗိုလ်မှူးချုပ်က ဘယ်သွားနေလို့တုန်း?။

**ဒကာမကြီး။** ။ဆေးခန်းမှာ ထိုင်နေပါတယ်ဘုရား, လာတော့မှာပါ။ (မကြာမီ ဗိုလ်မှူးချုပ် အောင်ကြီး ရောက်လာသည်၊ ရိုသေစွာ ဂါရဝပြု၏။)

**ဗိုလ်မှူးချုပ်။** ။ဒါဟာ ပန်တျာ ကျောင်းအုပ်ကြီးဟောင်း ဦးစိန်ညွန့်တို့အိမ်ပါ ဘုရား၊ ဒါက ကျောင်းအုပ်ကြီး, ဒါကတော့ ကျောင်းအုပ်ကတော်ကြီးပါဘုရား၊ (စောစောက ဆီးကြိုနေကြသော ဇနီးမောင်နှံတို့ကို ညွှန်ပြ၍ လျှောက်ထားနေခြင်း ဖြစ်သည်။) တပည့်တော်တို့ရဲ့ မိလို ဘလို အစ်မလို အစ်ကိုလို နေကြတာတွေပါ ဘုရား၊ ဒကာရင်း ဒကာမရင်းတွေလို မှတ်တော်မူပါ၊ ယခုဆွမ်းဒကာက သူတို့ သမီး ဒေါက်တာ မြင့်ရီပါဘုရား၊ သူက အခု မန္တလေး ဆေးရုံကြီးမှာ အလုပ်

လုပ်နေရပါတယ်၊ သူ့ခင်ပွန်းက ဒေါက်တာအောင်ညွန့် (အရှိုးကုဘက်က)ဖြစ်ပါတယ်ဘုရား၊ ခုသူက ရန်ကုန်ခေတ္တသွားနေရပါတယ်ဘုရား။

**ဆရာတော်၊** ။အင်း,ခုဒီရောက်နေတာ ဘယ်လောက်ကြာပလဲ?၊ (ဗိုလ်မှူးချုပ်အောင်ကြီးဘက်ကို လှည့်၍ မေးလိုက်သည်။)

**ဗိုလ်မှူးချုပ်၊** ။ရက်သတ္တ တစ်ပတ်လောက် ရှိသွားပါပြီဘုရား၊ သိမ်ဖြူဆရာတော် ဦးနာဂသေနနှင့် ကုသိုလ်ဖြစ် ဆေးလိုက်ပေးရင်း လှည့်လာပါတယ်၊ ဆေးပေးဌာနကို အိန္ဒိယသံရုံးဟောင်း(အခု မိုးကုတ်သိမ့်အမများ)တိုက်မှာ ဖွင့်ထားပါတယ်၊ ဆရာတော်လဲ ကျန်းမာရေးစစ်ကြည့်ချင် ကြည့်ပါဦးလား ဘုရား။

**ဆရာတော်၊** ။ဘုန်းကြီး မကြာမီကမှ ကျန်းမာရေးစစ်ဆေးပြီးတယ်၊ "နှလုံးရော, အဆုပ်ရော အားလုံး ကောင်းပါတယ်" တဲ့၊ ဒါ့ကြောင့် မလိုတော့ပါဘူး၊ ဒါနဲ့ ဒီကနေ ဘယ်ခရီးဆက်ကြဦးမတုံး?။

**ဗိုလ်မှူးချုပ်၊** ။ဒီကနေ မေမြို့နှစ်ရက်, မုံရွာနှစ်ရက်, ရွှေဘိုနှစ်ရက်, ပြီးတော့မှ မန္တလေးမှာ သုံးရက်ပေးပြီး ပြန်မှာပါဘုရား၊ ၁၅ ရက်ခရီးဆိုပြီး ထွက်လာခဲ့ကြတာပါ၊ (ထိုအခိုက်တွင် နောက်ထပ်ပုဂ္ဂိုလ်ကြီးတစ်ဦးတက်လာရာ ထိုသူ့ကို ညွှန်ပြ၍) "ဒါက ကြေးတိုင်မင်းကြီး ဦးသာမြ ပါဘုရား"ဟု ဆက်လက်လျှောက်ထား၏။

**ဆရာတော်၊** ။အင်း-သိပါရဲ့, သူက ဘုန်းကြီးတို့နှင့် ရင်းနှီးနေကြတာ ကြာပါပြီ၊ (စာချဘုန်းကြီးများဘက်ကို ညွှန်ပြ၍ ဆရာတော်က, ဒီဘုန်းကြီးတွေက သူတို့အရပ်က ဘုန်းကြီးတွေပဲ။

**ဦးသာမြ၊** ။(စာချဘုန်းကြီးဦးကုဏ္ဍလကို ညွှန်ပြ၍) ဒီဘုန်းကြီးက ကျွန်တော့် ညီပဲ။

**ဗိုလ်မှူးချုပ်၊** ။ဟင်…ဒီလိုဆို ခင်ဗျားကတော့ ဘာပြုလို့ ဘုန်းကြီး မလုပ်သလဲ?။

**ဦးသာမြ၊** ။ကျွန်တော်တို့က လောကီကျောင်းကို အရောက်စောသွားတာကိုး။

**ဆရာတော်၊** ။ကောင်းပါတယ် အခုလို လူ့ဘက် ရှင့်ဘက် နှစ်ဖက်လုံးမှာ ကိုယ့်အထဲက ရှိတော့ ပိုကောင်းတာပေါ့။

**ဗိုလ်မှူးချုပ်၊** ။(ပန်တျာကျောင်းအုပ် ဇနီးမောင်နှံတို့ကို ညွှန်ပြလျက်) သူတို့နှစ်ယောက်လဲ ထောင်ထွက်တွေပါဘုရား၊တပည့်တော်များနှင့်အတူ ထောင်ထဲမှာ နေခဲ့ကြရပါတယ်၊ (ဤသို့ ဗိုလ်မှူးချုပ်က ခပ်ရွှန်းရွှန်း လျှောက်ထားသောအခါ)…

**ဆရာတော်၊** ။အင်း-လူ့ဘုံကြီးဆိုတာ အကောင်းအဆိုး အမျိုးမျိုး အတွေ့ရဆုံးသောဘုံကြီးပဲလေ၊ အဆိုးလောကဓံနှင့် တွေ့လေလေ သံဝေဂယူရလေပဲ၊ အချုပ်ထဲက အမြတ်ထွက်အောင် လုပ်ကြရတယ်"ဟု တရားစကား မိန့်ကြားစဉ် ဆရာတော် ဦးနာဂသေနနှင့်ရဟန်းပျိုအဖွဲ့ချုပ် ဥက္ကဋ္ဌ ဆရာတော် ဦးဇောတိကတို့ ရောက်လာကြ၍ စုံညီသဖြင့် ဆွမ်းကပ်ကြလေ၏။ (ဆွမ်းဘုဉ်းပေးပြီး၍ ဆွမ်းအနုမောဒနာနှင့် ရေစက်ချ အပြီးတွင်)

**ဆရာတော်၊** ။ဆရာတော် ဦးနာဂသေန အိန္ဒိယမှာ ဆေးပညာ လေ့လာတာ ဘယ်လောက်ကြာခဲ့သေးတုံး?။

**ဦးနာဂသေန၊** ။လေးနှစ်ကြာပါတယ်ဘုရား။

**ဆရာတော်၊** ။ကောင်းပါတယ်လေ, တပည့်တော်တို့ဘုန်းတော်ကြီးတွေဘက်က ဒီလိုအများကောင်းကျိုး သယ်ပိုးနိုင်တာကို တပည့်တော်က ဂုဏ်ယူပါတယ်၊ ဆရာတော် ဦးဇောတိကကော ကျန်းမာရေးဘယ့်နှယ်လဲ?။

**ဦးဇောတိက၊** ။ဒီနှစ်ထဲ သိပ်မမာလှပါဘူးဘုရား။

**ဆရာတော်၊** ။သာသနာ့အကျိုး သယ်ပိုးနိုင်အောင် ကျန်းမာရေးကတော့ လိုတာပဲဘုရား၊ (ဤသို့ အလ္လာပ သလ္လာပ ပြောဆိုကြပြီးလျှင် ကျောင်းသို့ပြန်ကြရန် နေရာမှ ထကြပါတော့သည်။)

**မှတ်ချက်၊** ။ဆရာတော်သည် အရာရာတွင် အလွန်သတိထားတော်မူသည်၊ "ကျန်းမာရေး

စစ်ဆေးကြည့်ပါဦးလားဘုရား" ဟု ဒါယကာရင်း တစ်ဦးက လျှောက်ထားသည်ကိုပင် မလိုအပ်၍ လက်မခံချေ၊ အပိုမလုပ်တတ်ပေ၊ ထို့ပြင် ဒါယကာ ဒါယိကာမများနှင့် ဆက်ဆံရာတွင်လည်း ဣန္ဒြေရရ သိက္ခာရှိရှိ ဆက်ဆံတော်မူလေ့ ရှိ၏၊ စည်းလွတ်ဘောင်လွတ် ပြန်လည်ပြောဆိုလေ့ မရှိ၊ မိမိကိုယ်ကို နှိမ့်ချ၍ ဒါယကာ ဒါယိကာမများနှင့် တန်းတူထားကာ ရောလေ့ နှောလေ့လည်း မရှိ၊ ဗိုလ်မှူးချုပ်က ခပ်ရွှန်းရွှန်း လျှောက်ထားသည်ကိုပင် တရားလမ်းကြောင်းဘက်သို့ ပြောင်းပစ်လိုက်သည်။

## ချီးမွမ်း, ကဲ့ရဲ့ ဆိုလေ့မရှိ

ဆရာတော်သည် ဒါယကာ ဒါယိကာမများ အိမ်သို့ အထူးပင့်ဖိတ်၍ ဆွမ်းဘုဉ်းပေးကြွရသော်လည်း ဘယ်သောအခါမျှ ဆွမ်းကွမ်းကို ချီးမွမ်းလေ့မရှိ၊ ကဲ့ရဲ့မှုလည်း ပြုတော်မမူ၊ "ဖြူဖြူဖွေးဖွေး ဒီဆွမ်းကလေးက နူးပ့်, ချက်ပုံလေးက ကောင်းလိုက်တာ, ဘယ်သူ ချက်တာလဲ?၊ ဟင်းကလဲ အစပ်ကတည့်, ချဉ်ရည်က သောက်လို့ကောင်း, တို့ကျောင်းကို ခေါ်ပြီးအချက်ခိုင်းရဦးမယ်၊ လက်ရာက ပထမတန်းပဲ၊ တယ်ကောင်း"စသည်ဖြင့် ချီးမွမ်းလေ့ပြောလေ့ မရှိပါ၊ တပည့်များကိုလည်း မပြောမိအောင် မကြာ မကြာ သတိပေးတော်မူတတ်၏၊ "ဘုရားကို ငဲ့ရ မည်, ဘုရားမျက်နှာကို ထောက်ရမည်, မြတ်စွာဘုရား ဤသို့ မိန့်တော်မူလေ့ရှိမည်လော?" ဟု အကြောင်းပြတော်မူ၏၊ အချို့က ဝါဒတစ်မျိုး ရှိသေးသည်၊ ဆွမ်း, ဆွမ်းဟင်း စသည်ကို ချီးမွမ်းသည့်ပြင် "စားစေချင်လို့ ကျွေးတာပဲ, စားသာ စားကြ"ဟု တိုက်တွန်းတတ်ကြ၏၊ ဆရာတော်ကမူ ထိုသို့မဟုတ်ချေ၊"ဣန္ဒြေပျက်အောင် မစားနှင့်, မျှတရုံသာ စားပါ၊ ကြည်ညိုဖွယ် ဖြစ်ပါစေ, မဟားတရားမလုပ်ပါနှင့်, မိမိတို့က စည်းကမ်းပျက်သမျှ ဘုရားကိုသွားထိတယ်၊ ယခုအခါ သာသနာတော်ရဲ့တာဝန်ကို အတွင်းဝင်ပြီး ထမ်းနေတဲ့သူတွေဟာ တောသားတွေချည်းပဲ၊ စည်းမဲ့ကမ်းမဲ့ ကြည်ညိုမဲ့စရာ ဖြစ်လာရင် အထက်တန်းလွှာ ဒါယကာ ဒါယိကာမများက ပြောကြလိမ့်မည်၊ "စည်းရယ် ကမ်းရယ် ဘယ်မှာ ရှိမှာလဲ, တောသားတွေပဲ, တောက တက်လာကြတာတွေ"လို့ အထင်သေးကြလိမ့်မယ်၊ ဒီပုဂ္ဂိုလ်တွေ ထမ်းနေတဲ့ သာသနာကိုပါ တစ်ဆက်တည်းအထင်သေးလာလိမ့်မယ်၊ ဘုန်းကြီးတို့က အဲလို ဘုရားသာသနာကို အထင်သေးမခံနိုင်ဘူး၊ အမှန်က ဘုရားဟောဝိနည်းဒေသနာတော်တွေထဲမှာ လိမ္မာ ယဉ်ကျေးစေတဲ့ ကိုယ်ကျင့်စည်းကမ်းတွေ အစုံရှိပါတယ်၊ သူတို့ထက်တောင် စုံသေး၊ သူတို့ထက်လဲ မြင့်သေး၊ လိုက်နာဖို့ပဲ လိုပါတယ်၊ လိုက်နာရင် ဘယ်သူမဆို ယဉ်ကျေးတာပဲ" ဤသို့ စသည်ဖြင့် မိန့်တော်မူတတ်သည်။

## ဣန္ဒြေမဲ့ မဖြစ်စေနှင့်

ထို့ပြင်လည်း "တို့ဘုန်းကြီးတွေဟာ လာဘ်လာဘနှင့် ပတ်သက်လာရင် အများအားဖြင့် မိုးမမြင် လေမမြင် ဖြစ်တတ်ကြတယ်ကွဲ့၊ ဣန္ဒြေမဲ့ဖြစ်တတ်ကြတယ်ကွဲ့၊ မင်းတို့ သတိထားပါ, မဖြစ်ကြပါစေနှင့်၊ လာဘ်လာဘအတွက် ဘုန်းကြီးဖြစ်လာတာလား?လို့, စားစရာမရှိလို့ ဘုန်းကြီးလုပ်လာတာလား?လို့, အလုပ်လုပ်ရမှာပျင်းလို့ ဘုန်းကြီးဖြစ်လာတာလား?လို့ ကိုယ့်ကိုယ်ကို ဒီမေးခွန်းတွေမေးပါ၊ ဒီအခြေအနေမျိုး မဖြစ်ပါစေနှင့်။

*တစ်ခါတုန်းက မြတ်စွာဘုရားကိုယ်တော်မြတ်က မိန့်တော်မူတယ်..."ငါဘုရားကို ဆွမ်း သင်္ကန်း ကျောင်း ဆေး ပစ္စည်းလေးပါး ရဖို့အတွက် တရားဟောနေတယ်လို့များ ထင်ကြသလား"တဲ့။

ဤသို့လျှင် အကိုးသာဓကနှင့်ဆရာတော်ကပြ၍ အရာရာတွင် ခုံခုံမင်မင် ငန်းငန်းတက် မဖြစ်ဖို့, အသက်ရှည်၍ တည်တံ့ရုံမျှ, သာသနာ့ဝန်ကို ထမ်းနိုင်ရုံမျှ ရည်မှန်းသုံးဆောင်တတ်ဖို့, အာရုံခံစား သည့်ဟန်မျိုး မပါဖို့ မိန့်တော်မူတတ်သည်။

---

* ဦးမရိုမဏ္ဍာသ ပါဠိ၊ ကိန္တိသုတ်--၂၆၊

## ဘုဉ်းပေးလို့ ကောင်းပါရဲ့လား

တစ်ခါသော် ဒါယကာကြီးတစ်ဦးက သူ့တိုက်ပေါ်မှာ ဆွမ်းကပ်၍အပြီးတွင် "ဆွမ်းဘုဉ်းပေးလို့ ကောင်းပါရဲ့လား, မြိန်မြိန်ယှက်ယှက် ရှိပါရဲ့လား ဘုရား"ဟု မေးလျှောက်၏၊ ထိုအခါ ဆရာတော်က "ဒကာကြီးနှယ် မမေးကောင်းတာ မေးတယ်"ဟု ပြော၍ အပြစ်တင်လေသည်၊ ဒကာကြီးသည်လည်း "သူမှားသွားပြီ"ဟု နောင်တရကာ ပါးစပ်အဟောင်းသားဖြင့် ကြောင်နေမိလေ၏၊ ထိုအခါမှ ဆရာတော်က ရှင်းပြသည်၊ "ဒကာကြီးမေးပုံက ရသတဏှာဖြင့် ခံစားလို့ ကောင်းပါရဲ့လားလို့ မေးတာနှင့် အတူတူပဲ ဒကာကြီးရဲ့"ဟု ဖြေရှင်းပြမှ ကျေနပ်သွားတော့သည်၊ မှန်ပါ၏၊ ဒါယကာ ဒါယိကာမများမှာ စေတနာ သဒ္ဓါတရား ကောင်းကြသော်လည်း ရဟန်းသံဃာ နှင့်စပ်၍ မလျှောက်တတ်, မမေးတတ် ဖြစ်တတ်ကြရပါသည်။

တရုတ်မကြီးတစ်ယောက်ကမူ သူ့အိမ်မှာ ဆွမ်းဟင်းမျိုးစုံ စားပွဲကြီးနှင့်အပြည့် ဆွမ်းကပ်ထားသော ကိုယ်တော်များကို "ဘယ့်နှယ်လဲ ကိုယ်တော်တို့, တပည့်တော်မ ချက်ထားတဲ့ ဟင်းတွေ နှုတ်သီးတိုးကြရဲ့လား"ဟု မေးသတတ်၊ ကိုယ်တော်များက တစ်ပါးကို တစ်ပါးကြည့်၍ တခိခိ ရယ်မောကာ သည်းခံ၍သာ နေကြရသော ဟူ၏။

## ပြည်မြို့ ဇောတိကာရုံဆရာတော်ကြွလာ
## ပို၍ မေတ္တာပို့ရမှာပဲ



ပြည်မြို့ ဇောတိကာရုံဆရာတော် ဦးတေဇနိယ

၁၃၃၀ ပြည့် တန်ဆောင်မုန်းလပြည့်ကျော် ၁၅ ရက်နေ့ နံနက်ခင်းသြဝါဒတွင် ပြည်မြို့ ဇောတိကာရုံကျောင်းတိုက် ဆရာတော် ဦးတေဇနိယ အကြောင်းကို ထည့်သွင်း မိန့်မြွက်တော်မူ၏၊... ဇောတိကာရုံဆရာတော်သည် စာတတ် ပေတော် အကျော်အမော်တစ်ပါး ဖြစ်သည်၊ ပခုက္ကူ မဟာဝိသုတာရာမတိုက်ကြီးထွက်ပင် ဖြစ်၏၊ ပိဋကတ်ကို မွှေနှောက် ချောက်ချားနိုင်သည်။

ပြည်မြို့မှာ စာသင်တိုက်ကြီး တည်ထောင်၍ တပည့်လက်သား များစွာကို ပို့ချပေးနေ၏၊ အရွယ်ရောက်သော တပည့်ကြီး များစွာကိုလည်း အမြို့မြို့ အရွာရွာတွင် တိုက်ခွဲများစွာ ပွား၍ပေးထား၏၊ ပါဠိတက္ကသိုလ်များ တည်ထောင်ကြစဉ်က ပါဠိတက္ကသိုလ်ဗဟိုအဖွဲ့၏ ဥက္ကဋ္ဌလည်း ဖြစ်သည်၊ ဤဆရာတော်၏ အကြောင်းကို အောက်ပါအတိုင်း မိန့်တော်မူ၏။

"မနေ့တုန်းက ညနေ လေးနာရီခွဲခန့်လာတဲ့ ဆရာတော်ဟာ ပြည်မြို့ ဇောတိကာရုံဆရာတော်ပဲ, ပါဠိတက္ကသိုလ်ဗဟိုအဖွဲ့ဥက္ကဋ္ဌပေါ့၊ ပါဠိတက္ကသိုလ်တွေ ထူထောင်ဖို့ စီစဉ်ကြတော့ ငွေကိစ္စနှင့်စပ်ပြီး ဘုန်းကြီးက အကြံပေးရေးသားခဲ့ဖူးတယ်၊ ရေးတာကတော့ တရားရေးဝန်ကြီးချုပ်ဟောင်း ဒကာကြီး ဦးသိမ်းမောင်ဆီ ရေးတာပါပဲ၊ ဒကာကြီးကလဲ ဒါကို ပါဠိတက္ကသိုလ် ဗဟိုအဖွဲ့ဝင် ဆရာတော်တွေထံ တင်ပြထိုက်တယ်ထင်လို့ တင်ပြတော့ အခု ပြည်မြို့ ဇောတိကာရုံဆရာတော်အပါအဝင် ပါဠိတက္ကသိုလ် အဖွဲ့ဝင်ဆရာတော်တွေက ဘုန်းကြီးကို ပြင်းပြင်းထန်ထန် ဝေဖန်ကြသတဲ့, ပုတ်ခတ်ကြသတဲ့၊... ဒါပေမယ့် ဘုန်းကြီးကတော့ မေတ္တာမပျက်ပါဘူး။

အဲလိုနှင့် နေကြရာက တော်လှန်ရေးအစိုးရ လက်ထက်ရောက်လာတော့ သာသနာသန့်ရှင်းရေးအတွက် မော်ဘီအစည်းအဝေးကြီး ပေါ်လာတယ်၊ အစည်းအဝေးကြီးမတိုင်မီ ရန်ကုန်မြို့ကမ္ဘာအေးမှာ

အကြိုအစည်းဝေးပွဲတွေ လုပ်ရသေးတယ်၊ အဲဒီတုန်းက သူကလဲ သူ့ဆိုင်ရာတွေနှင့် သူ့တာဝန်ကျရာ အလုပ်ကို လုပ်တယ်၊ ဘုန်းကြီးကလဲ ဘုန်းကြီးဆိုင်ရာတွေနှင့် ဘုန်းကြီးအလုပ်ကို လုပ်တာပဲ၊ အဲဒီတုန်းကလဲ သူက ဘုန်းကြီးအပေါ်မှာ ပစ်ပစ်ခါခါတွေ ဝေဖန်သတဲ့၊ ဒါပေမယ့် ဘုန်းကြီးက မေတ္တာ မပျက်ခဲ့ပါဘူး၊ အဲ-မကြာခင်တုန်းကတော့... သာသနာတော်အတွက် ဦးမောင်ကြီးရဲ့ ငွေပင်ငွေရင်း မြုပ်နှံ လှူဒါန်းတဲ့ ပဒေသာကို အလှူခံဖို့ မန္တလေးကို ကြွလာတယ်၊ အဲဒီ လှူဒါန်းပွဲကို ဒီနှစ် မန္တလေး ပရိယတ္တိဗိမာန်မှာ ကျင်းပတာ၊ အဲဒီကို ကြွလာရင်း ဘုန်းကြီးနှင့်တွေ့တော့ သူက... "ကိုယ်တော့်ကျောင်းကို ရောက်အောင် လာခဲ့ရဦးမယ်, တယ်နာမည်ကြီးတယ်"တဲ့။

## စိတ်ကို ကြည်သွားတာပဲ

ဒီတော့ ဘုန်းကြီးကလဲ "ကောင်းပါတယ်ဘုရား, ကြုံတုန်းကြုံခိုက် ကြွခဲ့ပါဦး"လို့ ပင့်ခဲ့ပါတယ်၊ ဒါနဲ့ မနေ့က ကြွလာတာ၊ သူနဲ့အတူ ဇေယျဝတီတိုက်အုပ် ဆရာတော်ရော, သူ့တပည့်သုံးပါးရော ပါလာကြ တယ်လေ။

မနေ့တုန်းက ဒီကို ရောက်လာလို့ ဘုန်းကြီးနှင့် အလ္လာပ သလ္လာပ စကားပြော, အပန်းဖြေနားနေပြီးတော့ ကျောင်းတိုက်ကို လှည့်ပတ်ကြည့်ချင်တယ်ဆိုလို့ ဘုန်းကြီးကိုယ်တိုင်ပဲ လိုက်ပြလိုက်ပါတယ်။

ကျောင်းတိုက်အနေအထား ကျယ်ပြန့်ပုံ, ကျောင်းတလင်းရဲ့ သန့်သန့်ရှင်းရှင်းဖြစ်ပုံ, အရိပ်ကောင်းတဲ့ သစ်ပင်ကြီးတွေနှင့် အုံ့အုံ့ဆိုင်းဆိုင်း ဝေဆာနေပုံ, တောင်သမန်အင်းစောင်းမှာ လေကောင်း လေသန့်နှင့် ရေကောင်းရေသန့် ရပုံ, ကျောင်းသင်္ခမ်းတွေ စနစ်တကျ ရှိနေပုံ, သံဃာ့ပရိသတ် များစွာရှိမှန်းသိပေမယ့် ရှိတယ်လို့ မထင်ရလောက်အောင် ကိုယ်တော်ကလေးတွေကလဲ တိုးတိုးတိတ်တိတ် စာကျက်နေကြ, စာကြည့်နေကြပုံ, ကျောင်းတိုက်ကြီး တစ်ခုလုံး တောရကျောင်းဝင်းကြီးလို ဝန်းကျင်ပတ်ချာ တိတ်တိတ်ဆိတ်ဆိတ် ငြိမ်သက်နေပုံတွေကို တွေ့သွားလို့ "စိတ်ကို ကြည်သွားတာပဲ ကိုယ်တော်"တဲ့ အမိန့်ရှိတယ်။

## တကယ်ကို အလုပ် လုပ်နေတာကိုး

ပြီးတော့ ဒီဆရာတော်ဟာ တော်တော်စေ့စပ်တယ်၊ ဒါ့ကြောင့်လဲ ခေါင်းဆောင်ဖြစ်ပေတာပဲ၊ ခေါင်းဆောင် အကြီးအကဲဆိုတာ ဒီလိုပဲ၊ ဘယ်လောက်များလဲဆိုရင် ဒီ ၂၅ ဧကလောက်ကျယ်တဲ့ ကျောင်းဝင်းကြီးထဲ အနှံ့လိုက်ကြည့်တယ်၊ ကြိုကြိုကြားကြားအထိ လိုက်ကြည့်တယ်။

ရေတွင်း ရေကန် ရေချိုးခန်း, ကုဋီအိမ်မှအစ စုံအောင် ကြည့်တယ်၊ အစွန်အဖျားမှာ ရှိနေတဲ့ ကမ္မဋ္ဌာန်းကျောင်းကလေးများရဲ့ နောက်ဘက်ချောင်ကြို ချောင်ကြားအထိ လိုက်ကြည့်တယ်၊ ကြည့်သမျှလဲ အမှိုက်သရိုက်မှအစ သန့်ရှင်းနေတာချည်း တွေ့ရလို့ အမိန့်ရှိသွားသေးတယ်။

"အင်း...ကိုယ်တော့် မေတ္တာနှင့် ကိုယ်တော့်အဆုံးအမ ဩဝါဒတွေဟာ ပျံ့နှံ့ပါပေတယ်၊ နောက်ဖေးနောက်ဖီ ချောင်ကြို ချောင်ကြားအထိ ပျံ့နှံ့ပါပေတယ်"တဲ့။

အဲလိုနဲ့ တစ်ကျောင်းတိုက်လုံး လှည့်ပတ်ကြည့်ပြီး ပြန်လာခဲ့ကြတယ်၊ ပြန်လာရင်းနဲ့ သူ့မျက်စိထဲ တရေးရေး မြင်ယောင်နေဟန်တူရဲ့...

"ကိုယ်တော်က သာသနာတော်အတွက်
တကယ်ကို အလုပ် လုပ်နေတာကိုး, သာဓုပါ
ကိုယ်တော်, သာဓု...သာဓု၊ နောက်တော့
အခုထက် ပိုပြီး မေတ္တာပို့ရမှာပဲ" လို့ ...

အမိန့်ရှိသွားတယ်။

အဲဒါ ဘုန်းကြီးရဲ့ မေတ္တာမှန်မှု, လုပ်နေတဲ့ အလုပ်လဲ မှန်မှုကြောင့်၊ ဒါကြောင့် မင်းတို့လဲ ဘယ်လို အခြေအနေမျိုးနှင့် တွေ့ရ တွေ့ရ မေတ္တာသာ ထားပြီး အလုပ် လုပ်ကြ"ဟူ၍ ဩဝါဒပေးတော်မူသည်။

## မိုးချုပ်ကာမှ နားလည်ကြ

ပြည်မြို့ ဇောတိကာရုံဆရာတော်နှင့် ဤမဟာဂန္ဓာရုံကျောင်းတိုက် အရှင်ဇနကာဘိဝံသ ဆရာတော်တို့သည် ယခုမှ တွေ့ကြ သိကြရသည်မဟုတ်၊ စာသင်သားဘဝ၊ စာချဘုန်းကြီးကလေးများဘဝ တုန်းကပင် ပခုက္ကူ မဟာဝိသုတာရာမတိုက်ကြီး ထဲမှာ တွေ့ခဲ့ကြ၊ သိခဲ့ကြ၊ ရင်းနှီးခဲ့ကြရသော ဆရာတော်များ ဖြစ်ကြပေသည်။

ပညာများ သင်ယူပြီးနောက် အတောင်အလက် စုံကြ၍ ကိုယ့်ဘုံဌာန ကိုယ့်ထီး ကိုယ့်နန်းဖြင့် တစ်ကျွန်းစီ၊ တစ်မြို့စီ နေထိုင်လာခဲ့ကြရာမှ တစ်ပါးနှင့် တစ်ပါး ဝေးကွာ သွားခဲ့ကြရလေ သည်။

သာသနာရေး အလုပ်ကိစ္စများဖြင့် တစ်ပါးနှင့် တစ်ပါး တစ်ခါတလေ အလုပ်ခွင်တွင် လာ၍ ဆုံတတ်ကြ၏၊ သို့သော်လည်း အလုပ်သဘောအရ ပြောကြ ဆိုကြ ဝေဖန်ကြနှင့် တစ်ပါးသဘောထားကို တစ်ပါးက လည်လည်ပတ်ပတ် သိခွင့် နားလည်ခွင့် မရသလို ဖြစ်ခဲ့ကြရ၏။

ယခုအခါတွင်ကား တစ်ပါး၏ နေရာသို့ တစ်ပါးက ထိထိခိုက်ခိုက် သွားရောက်လေ့လာ၍ သိရသောအခါ ဝမ်းသာကြရလေသည်၊ သို့သော် အချိန်နှောင်းခဲ့လေပြီတည်း၊ မိုးချုပ်သွားပြီဟု ဆိုရပေတော့မည်၊ ဆရာတော် နှစ်ပါးလုံးပင် သက်တော် ၇၀ ကျော်ကြ၍ ၈၀ တွင်းသို့ ချဉ်းနင်းဝင်ရောက်နေကြပြီဟု ဆိုထိုက်တော့၏။

အချိန်မနှောင်းမီကသာ ဤသို့ နားလည်ကြရပါမူ သာသနာတော်ကြီးအတွက် မည်မျှ တန်ဖိုးကြီးမည်နည်း၊ နှိုင်းဆ၍ပင် ရနိုင်မည် မထင်ပါ၊

ယခုအခါတွင်ကား "ကိုယ်တော်က သာသနာတော်အတွက် တကယ်ကို အလုပ် လုပ်နေတာကိုး"ဟု ကြည်ကြည်လင်လင် သိမြင်သွားလေပြီ။

မှော်ဘီအစည်းအဝေးကြီးတုန်းကသာ ဤမျှ ပိပိပြင်ပြင် ကြည်လင်ကြပါမူ သံဃာတော်များ၏ အနာဂတ် ပညာရေးသမိုင်းကြောင်း အလျဉ်သည် ခေတ်နှင့်အညီ တစ်မျိုးတစ်ဖုံ ပြောင်းလဲခဲ့၍ ယခုအချိန်အခါဝယ် တင့်တယ်စွာ တည်လျက် ရှိရာ၏၊ "နောင်လာ နောက်သားတို့အတွက် နောင်တဖြင့် သံဝေဂ ယူဖွယ်ပေတကား။"

## အသွေးအရောင်တောက်အောင် ချီးမြှောက်ပေးတော်မူခဲ့သော ဆရာတော်ဘုရားကြီး ကြွလာ

### ကျေးဇူးရှင်ဆရာတော်

၁၃၃၀ ခု နတ်တော်လဆန်း ၁၂ ရက်နေ့၊ နေ့တစ်နာရီခွဲအချိန်တွင် ဖြစ်၏၊ အဘိဓဇမဟာရဋ္ဌဂုရု ဘွဲ့တံဆိပ်တော်ရ သက်တော် ၈၉ နှစ်ရှိ ပခုက္ကူ မဟာဝိသုတာရာမတိုက် ဆရာတော်ဘုရားကြီးသည် အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်သို့ ကြွလာတော်မူ၏၊ နောက်ပါအဖြစ် ပခုက္ကူ မဟာဝိသုတာရာမ တိုက်အုပ်ဆရာတော် ဦးနန္ဒိယ သက်တော် ၄၁ နှစ်နှင့် အခြား စာချဘုန်းကြီးသုံးပါးတို့ပါ ပါလာကြသည်၊ ကပ္ပိယကာရက ဒါယကာတစ်ဦးလည်း ပါ၏။

ဆရာတော်ဘုရားကြီးနှင့်အဖွဲ့သည် နတ်တော်လဆန်း ၁၀ ရက်၊ ၁၁ ရက်က ကျင်းပသော တံတားဦးမြို့ သိမ်သမုတ်ပွဲမှ အပြန်တွင် ဝင်လာတော်မူကြခြင်း ဖြစ်၏၊ တံတားဦးမြို့တွင် သိမ့်အမဒေါ်သိန်းက အဘိဓဇမဟာရဋ္ဌဂုရု မစိုးရိမ်ဆရာတော်ဘုရားကြီးနှင့်အဘိဓဇမဟာရဋ္ဌဂုရု ပခုက္ကူ ဆရာတော်ဘုရားကြီး နှစ်ပါး ဦးစီး၍ တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဆရာတော် ဦးဝိစိတ္တသာရာဘိဝံသ၊ တိပိဋကဓရဆရာတော် ဦးနေမိန္ဒတို့အပြင် အဂ္ဂမဟာပဏ္ဍိတအကျော်အမော်ဆရာတော်ပေါင်း

များစွာ သံဃာတော် ၈၀ ကျော်ဖြင့် သိမ်သမုတ်ပွဲကျင်းပရာတွင် သိမ့်အမအဖြစ် ခံယူသည်ဟူ၏၊ ထိုပွဲကို ချီးမြှောက်ပြီးလျှင် အပြန်တွင် ဝင်လာတော်မူကြခြင်း ဖြစ်သည်၊ ဝင်လာခြင်း၏အကြောင်းမှာ တပည့်ကြီး အရှင်ဇနကာဘိဝံသကို ချီးမြှောက်တော်မူလို၍ဟုပင် ဆိုရပါမည်၊ မှန်ပါ၏၊ အရှင်ဇနကာဘိဝံသသည် လွန်ခဲ့သော နှစ်ပေါင်း ၅၀ ခန့်က သာမဏေဘဝဖြင့် ပခုက္ကူ မဟာဝိသုတာရာမကျောင်းတိုက်ကြီးသို့ ပိဋကတ်အနက်ညာဏ်များ ရင့်သန်ရေးအတွက် ရည်ရွယ်လျက် ရောက်ခဲ့ရ၏၊ ထိုစဉ်က ဤအဘိဓမဟာရဋ္ဌဂုရုဆရာတော်ဘုရားကြီးလောင်းလျာ ဆရာတော်ကပင် စတင်၍ဆိုဝါ ဆိုစေလျက် ရှင်ဇနကကို ချီးမြှောက်တော်မူခဲ့သည်။

## စာပွဲသဘင် ရဲရဲဝင်ခဲ့

တစ်နေ့တွင် ဤဆရာတော်ဘုရားကြီး၏ စာပွဲသဘင်၌ သုတ်ပါထေယျပါဠိတော်နှင့် အဋ္ဌကထာ ဆိုနေကျ ကိုယ်တော်က အသံဝင်နေ၏၊ အများကြားလောက်အောင် ဆိုဖို့ရာ မစွမ်းနိုင်တော့ချေ၊ ထိုအခါ အနားမှာ စာလိုက်နေသော ရှင်ဇနကကို "ကိုရင်... ဆိုစမ်းဟဲ့"ဟု ဤဆရာတော်ကြီးက ရုတ်တရက် ခိုင်းပါတော့သတဲ့၊ ကိုရင်ဇနကလည်း စာလိုက်သံဃာ ၂၀၀ ခန့်လောက်အလယ်တွင် မဆုတ်မဆိုင်း မြင်းကောင်းစိုင်းသို့ ဒိုင်းဒိုင်းပြေးဆိုလိုက်လေသည်။

ထိုအခါ ဤမဟာရဋ္ဌဂုရုလောင်းဆရာတော်က ရှင်ဇနက၏ စာဆိုဟန် အာလျှာအသံ ဌာန်တို့ကို ကျေနပ် အားရစွာ အသိအမှတ်ပြုထားတော်မူလိုက်၏၊ သို့သော် ထိုစာဝါကို သုံးရက်လောက်သာ ဆိုလိုက်ရသည်၊ ဆိုနေကျ ကိုယ်တော်က ပြန်ပြီး အသံထွက်လာ၍ မူလကိုယ်တော်ပင် ဆက်လက်ဆိုတော့သည် ဟူ၏။

နောက်တစ်နှစ် ဝါဆိုဦးတွင် စာဝါများ စီစဉ်သောအခါ ဤအဘိဓမဟာရဋ္ဌဂုရုလောင်း ဆရာတော်က သမ္မောဟဝိနောဒနီနှင့် မူလဋီကာ ချပို့မည်ဟု သတ်မှတ်ထား၏၊ ထိုအခါ ဤဆရာတော်က ရဟန်းဖြစ်ပြီးစသာသာ အရှင်ဇနကအား မူလဋီကာ ဆိုဖို့ရန် တာဝန်ပေးလေသည်၊ ထိုအခါမှ စ၍ ကိုယ်ပိုင် ဆိုဝါအဖြစ် ရလေ၏။

## စာဆိုကောင်း သတင်းမွှေးခဲ့

မူလဋီကာ ကုန်သောအခါ... ဒီဃနိကာယ်အဋ္ဌကထာကို ဆိုဖို့ရန် ဤဆရာတော်ကပင် ဆက်လက်၍ ချီးမြှောက်တော်မူပြန်သည် ဟူ၏။

အရှင်ဇနက၏ စာဆိုကောင်းကြောင်းသတင်းကား ပျံ့နှံ့နေလေပြီ၊ ထို့နောက် ညောင်တုန်းဆရာတော်က သံယုတ်အဋ္ဌကထာကို ဆိုဖို့ရန် ချီးမြှောက်တော်မူပြန်သည် ဟူ၏၊ ထို့နောက်တစ်ဖန် ပထမဆရာတော်ကြီး ဦးပညာက "အဘိဓမ္မာအဋ္ဌကထာ တတိယစာအုပ်ကို ဆိုရမည်"ဟု ချီးမြှောက်တော်မူပြန်သည်ဟူသတတ်။

ဤသို့လျှင် အရှင်ဇနကသည် ပခုက္ကူဆရာတော်ဘုရားကြီးများ၏ တန်ဖိုးထားအပ်သော စိန်ကောင်း ကျောက်ကောင်း တစ်လုံးပမာ တပည့်ကြီး တစ်ဦး ဖြစ်ခဲ့ပါလေသည်။



ပခုက္ကူဆရာတော် ဦးပညာ (၁၂၄၀-၁၃၀၈)

အရှင်ဇနကလည်း ဆရာတော်ကြီးများက လိုလိုလားလား ချီးမြှင့်အပ်သော စာဝါတို့ကို မြတ်မြတ်နိုးနိုး ခံယူကာ တာဝန်ကျေကျေ "ဆိုဝါအဖြစ်" ဆိုခဲ့ရလေသည်၊ ဤသို့ ဆရာတော်ကြီး သုံးပါးလုံး၏ တန်ဖိုးထားခြင်းကို ခံရ၍လည်း အရှင်ဇနကက မိမိဘဝမှာ ဂုဏ်ယူ၍မဆုံး ဖြစ်ခဲ့ရတော့၏၊ မကြာမကြာလည်း ဆရာတော်ကြီးများ၏ ဂုဏ်ကျေးဇူးတို့ကို ထုတ်ဖော်၍ ချီးကျူးဦးတင်လေ့ ရှိသည်။

## အရောင်ထွက်ဖို့အတွက် အကွက်ဖော်ပေးခဲ့

ဆရာတော်များက နောင်အခါတွင် သာသနာတော်၌ ထိုက်ထိုက်တန်တန် အလုပ်လုပ်နိုင်အောင် အရည်အသွေး ဖြည့်ပေးခဲ့၏၊ ကျောက်ရိုင်းကလေးတစ်တုံးကို အသုံးဝင်၍ တန်ဖိုးတက် အရောင်ထွက်အောင် အကွက်ဖော်ပေးသကဲ့သို့ ဖြစ်တော့သည်၊ ပေးသည့်အလျောက် အရှင်ဇနကာဘိဝံသ ကလည်း အလုပ် လုပ်နိုင်ခဲ့သဖြင့် မိမိ၏ ဆရာတော်ရင်းများနှင့်တကွ ပခုက္ကူဆရာတော်ကြီးများက အားရကျေနပ် နှစ်သက်တော်မူကြသည်၊ အသိအမှတ်လည်း အမြဲပြုတော်မူကြ၏။

ထို့ကြောင့်ပင် ယခုအခါ တပည့်ကြီး၏ ကျောင်းတိုက်သို့ ဝင်လာ ကြွရောက် ချီးမြှောက်တော်မူကြခြင်း ဖြစ်ပေသည်၊ ဤသည်ပင် ဂုဏ်ထူးတစ်ရပ်ဖြစ်တော့၏။

သက်တော် ၉၀ နီးပါး အဘိဓဇမဟာရဋ္ဌဂုရု ပခုက္ကူဆရာတော်ဘုရားကြီးက ယခုအခါ သက်တော် ၇၀ နီးပါးရှိပြီဖြစ်သော အရှင်ဇနကာဘိဝံသကို ကိုရင်ခပ်ရွယ်ရွယ်, ရဟန်းဖြစ်စ ခပ်ငယ်ငယ်တုန်းကလို ရင်းရင်းနှီးနှီး ပြောဆိုဆက်ဆံတော်မူ၏။

"ဇနက...မင့်ကျောင်းတိုက်မှာ သံဃာ ဘယ်လောက် ရှိသလဲ, သူတို့ကို မနက် အရုဏ်ဆွမ်း ဘယ်လိုလုပ် ကျွေးသလဲ၊ မင်း တတ်နိုင်ရဲ့လား၊ ဘယ်လို ကြိုးစားထားသလဲ၊ ငါတော့ဖြင့် ဒီလောက် ပရိသတ်များလာရင် ကျွေးထားဖို့ မတတ်နိုင်ပေါင်ကွယ်"စသော နားဝင်ပီယံ မိန့်မြွက်သံကလေးတို့ပင် ဖြစ်သည်၊ ဆရာတော် အရှင်ဇနကာဘိဝံသကလည်း ဤသို့ မိန့်မြွက်တော်မူသည်ကိုပင် ကြည်နူးနေဟန်ရှိ၏။

## ကြီးလာသောအခါ ပြန်၍ ငယ်ရသည်ကို ကျေနပ်
### မသိတတ်တဲ့ ဒီကလေးနှယ်

ယခုအခါ မြန်မာပြည်တစ်လွှား၌ ဂုဏ်ဖြဲဖြဲ အရပ်ရပ်တို့ဖြင့် အဘက်ဘက်မှ ပြည့်စုံ၍ နာမည်ကြီးလျက်ရှိသော ဆရာတော် အရှင်ဇနကာဘိဝံသကို "မင်းနဲ့ ငါနဲ့" ကလေးပမာ ဆက်ဆံပြောဆိုနိုင်သူမှာ များစွာရှိမည် မဟုတ်ပါ၊ ဤဆရာတော်ကြီးမျိုးတို့လို တစ်ပါးစ နှစ်ပါးစမျှသာ ရှိပါလိမ့်မည်၊ ထို့ကြောင့်လည်း ဆရာတော် အရှင်ဇနကာဘိဝံသက ပြုံး၍ နှလုံးကြည်ဖြူ ကျေနပ်နေတော်မူ၏၊ ဤသို့ ကလေးငယ်ပမာ အပြောခံရသည်ကိုပင် ပီတိဖြစ်၍ နေ၏၊ ဂုဏ်ယူ၍ နေ၏၊ အရှင်အာနန္ဒာ ပမာ ဖြစ်တော့သည်။

(၁) တစ်ခါတုန်းက အရှင်အာနန္ဒာသည် နောက်ပါရဟန်းငယ်များစွာဖြင့် ဒက္ခိဏဂိရိဇနပုဒ်သို့ ဒေသစာရီ ကြွချီနေ၏၊ ထိုပရိသတ်ထဲမှ ရဟန်းငယ် သုံးကျိပ်ခန့်သည် လူထွက်ကုန်ကြ၏၊ ထိုအခါ အသက်ရာကျော် ရှိတော်မူသော (သူ၏ ဥပဇ္ဈာယ်ဆရာ) အရှင် မဟာကဿပ မထေရ်ကြီးက အသက် ၈၀ နီးပါးမျှရှိနေပြီဖြစ်သော အရှင်အာနန္ဒာကို "နဝါယံ ကုမာရကော မတ္တမညာသိ-ဒီကလေးနှယ် ကိုယ့်ပမာဏကိုယ် မသိမှု ဆိုးဝါးလိုက်တာ"ဟူ၍ ဆိုဖူးမြည်ဖူး၏။

ထိုအခါ အရှင် အာနန္ဒာက ... (၂) "တို့များ

---

(၁) နိဒါနဝဂ္ဂသံယုတ်, စီဝရသုတ်–၄၀၈။ (၂) အပိ မေ အာဝုသော ကဿပ သိရသ္မိံ ပလိတာနိ ဇာတာနိ၊ အထ စ ပန မယံ အဇ္ဇာပိ အာယသ္မတော ကဿပဿ ကုမာရကဝါဒါ န မုစ္စာမာတိ။

ခေါင်းပေါ်မှာ ဆံပင်ဖြူတွေ ပေါက်ကုန်တဲ့အချိန် တိုင်အောင် (ကုမာရက) "ကလေးငယ်"လို့ အသုံး အနှုန်းခံရတဲ့ဘဝက မလွတ်သေးဘူး၊ ငါ့ဥပဇ္ဈာယ် ဆရာ မထေရ်မြတ်ကြီးက ငါ့ကို "ကလေး"တဲ့ဟု ပြော၍ ဂုဏ်ယူလေသည်။

ဤကား သူတော်ကောင်းတို့၏ မေတ္တာပေတကား၊ ဆရာသမားတို့၏ မြည်တွန်တောက်တီး အပြစ်တင်သည်ကိုပင် ရှက်စရာဟု သဘောမထား, လေးလေးစားစား ခံယူလျက် ဂုဏ်ယူတော်မူကြသည်။

## အရှင်အာနန္ဒာ ပမာအလား

ယခုအခါ ဆရာတော် အရှင်ဇနကာဘိဝံသ လည်း ဤနည်းပမာပင် ဖြစ်တော့၏၊ သာသနာ့ အလုပ်တွေကို များစွာ ပြုလုပ်ထားသဖြင့် သာသနာ တော်တွင်နေလို လလို ထင်ရှားကျော်ကြားနေသော ဆရာတော် အရှင်ဇနကာဘိဝံသကို အဘိဓဇမဟာ ရဋ္ဌဂုရု ပခုက္ကူဆရာတော်ဘုရားကြီးက ငယ်ငယ် ကလို "မင်း-ငါ"ဟု ပြောသဖြင့် သဘောကျနေ တော်မူ၏၊ အရှင်အာနန္ဒာလိုပင် ခေါင်းမှာ ဆံပင် ဖြူတွေ ပေါက်ရုံမကဘဲ မျက်ခုံးမွေးအဖြူများပါ ပေါက်လာပြီဖြစ်သော မိမိအား ဤကဲ့သို့ ဖခင်ကြီး ပမာ ရင်းနှီးစွာ မိန့်မြွက်တော်မူခြင်းအတွက် ဂုဏ် တက်စရာဟု အရှင် ဇနကာဘိဝံသက သဘော ထားတော်မူသည်၊ တစ်နည်းအားဖြင့် အသက်ကြီး လာသောအခါ ယခု ကဲ့သို့ ပြန်၍ ငယ်ရသည်ကို ကျေနပ်သလိုလည်း ဖြစ်နေပါလိမ့်မည်။

၁၃၂၆ ခုနှစ် သာသနာတော် သန့်ရှင်းရေး အတွက် မော်ဘီ အစည်းအဝေးကြီး၏ အကြို စည်းဝေးကြစဉ်ကလည်း ဤနည်းပမာ ကြည်ညိုရ ဖူးသည်၊ အကြိုစည်းဝေးပွဲများတွင် အနာဂတ် ကာလ သာသနာ့နယ်မြေ အုပ်ချုပ်ရေးအတွက် ဂိုဏ်းအုပ် ဂိုဏ်းချုပ် ဂိုဏ်းထောက်မှုကို အဘိဓဇ မဟာရဋ္ဌဂုရု ပခုက္ကူဆရာတော်ဘုရားကြီးက တင် ပြ၏၊ သံဃာတော်များ၏ အနာဂတ်ပညာရေးမှုကို ဆရာတော် အရှင်ဇနကာဘိဝံသက တင်ပြသည်။

## ဆရာ့အပေါ် အစဉ်လေးစားခဲ့

အစည်းအဝေး၌ အရှင်ဇနကာဘိဝံသက တင် ပြနေစဉ် အဘိဓဇ ပခုက္ကူဆရာတော်ကြီးက "နေ စမ်းပါဦးကွ မင့်ဥစ္စာက ငါ့ဟာ ကျန်နေသေးတယ်, ငါ ဆက်ပြောလိုက်ပါရစေဦး"ဟု ဆိုလိုက်ရာ ဆရာ တော် အရှင်ဇနကာဘိဝံသလည်း နောက်ဆုတ်၍ ငြိမ်သက်သွား၏၊ စောစောက သူ့အလှည့်တွင် ကျန်နေသော စကားတို့ကို ပခုက္ကူဆရာတော်ကြီး က ဆက်လက် ပြောနေတော်မူ၏၊ ပြီးလျှင် ရပ်သွား သည်၊ ခန်းမကြီးတစ်ခုလုံး တိတ်ဆိတ်သွားတော့၏။

ထိုအခါ ဆရာတော်တစ်ပါးက "ပြောလေ, ပြောလေ, ဦးဇနကက ဆက်ပြောလေ"ဟု သတိ ပေးလိုက်ရာ ဆရာတော် အရှင်ဇနကာဘိဝံသက "သြော် ဆရာတော်ကြီးက မင့်ဟာ ခဏနေစမ်း ပါဦး ဆိုလို့"ဟူ၍ ပြော၏၊ ထိုအခါတွင်မှ အဘိဓဇ ဆရာတော်ကြီးက "အေးအေး-ငါ ပြောပြီးပြီ, ကဲ မင်းဆက်ပြောတော့တဲ့။

ဤသို့လျှင် သက်တော် ၇၀ ကျော်ဆရာတော် ဘုရားကြီးများချည်း စည်းဝေးသော ပွဲမျိုးတွင် ဤကဲ့သို့ ရင်းနှီးစွာ ဆရာ တပည့် ဆက်ဆံနေကြ သည်ကို ကြည့်၍ အများက ပီတိဖြစ်ကာ ပြုံးပြီး ကြည့်နေတော်မူကြသည်။

ဆရာသမားများ မိန့်ကြားခိုက်တွင် ကြားက ဝင်၍ ကန့်လန့် ကန့်လန့် မရှုပ်တတ်သဖြင့်... "တော်ကြပါပေရဲ့"ဟု ဝမ်းထဲက ကြိတ်၍ ချီးကျူး နေကြဟန် ရှိပေသည်။

ဤသို့လျှင် အရှင်ဇနကာဘိဝံသ မှာ ဆရာ သမားများကို အစဉ်ထာဝရ လေးစားတတ်သော အလေ့ရှိသည်။

## ဆရာအပြန် ကန်တော့ခန်း

အဘိဓမ္မမဟာရဋ္ဌဂုရု ပခုက္ကူဆရာတော်ဘုရားကြီး ကြွလာတော်မူခိုက် ဂန္ဓာရုံသံဃာတော်အားလုံးလာရောက် ကန်တော့ကြသည့်အပြင် အပြန်တွင်လည်း လက်အုပ်အဥလီ မြှောက်တင်ချီ၍ တညီတညာတည်း ကန်တော့လိုက်ကြသေးသည်၊ ကန်တော့ကြပုံမှာ ဆရာတော်ဘုရားကြီးက ထိုက်သင့်သော ဩဝါဒများကို မြွက်ကြားပြီး၍ အပြန်တွင် ဂန္ဓာရုံမှ သံဃာတော် ၂၀၀ ကျော်တို့က ဘုရားအာရုံခံတိုက်နှင့် စာချတိုက်ကြားတွင် အရှေ့အနောက် အရှည်အလျားတစ်ဖက်တွင် ၁၀၀ စီ စဉ်တန်းလိုက်ကြ၏။

ညီညာသော အရပ်အမောင်းများအလိုက် စဉ်တန်းလျက် ညီညာသော သင်္ကန်း အညိုရောင်၊ ညီညာသော ဝတ်ရုံဖြင့် ဝတ်ကာ, ညီညာသော လက်အုပ်ကလေးများကို ချီ၍, ညီညာသော စေတနာတို့ဖြင့် ဂါရဝပြုပြီး တန့်ရပ်စောင့်စားနေကြသည်၊ ထိုသံဃာတန်းနှစ်တန်း၏ အလယ်ကြားမှ တရွေ့ရွေ့ကြွလာသော အဘိဓမ္မမဟာရဋ္ဌဂုရုဆရာတော်ဘုရားကြီးက ပြုံးရွှင်သော မျက်နှာထားဖြင့် လေးစားကြသော ဂါရဝတို့ကို အသိအမှတ်ပြုရင်း အပူဇော်ခံလျက် ပြန်၍ ကြွတော်မူလေသည်။

တိုမြင်ကွင်းကား ရင်တွင်း၌ သိမ့်ခနဲ သိမ့်ခနဲ ဖြစ်စေလောက်အောင် ကြည်နူးဖွယ် ကောင်းလှလေတော့သည်၊ ဆရာတော်ဘုရားကြီးသည်လည်း ထိုမြင်ကွင်း, ထိုကန်တော့ခန်းကို မမေ့နိုင်အောင် ရှိရသဖြင့် ပခုက္ကူသို့ ပြန်ရောက်သောအခါတွင်ပင် စပ်မိတိုင်း မိန့်မြွက်၍ ဩဝါဒပေးရာတွင် ထည့်စွက်လျက် ချီးမွမ်းတော်မူနေသည်ဟူသတတ်။

## ရဟန္တာဟု ကျော်ကြားနေသော မိုးညို ဦးသူရိယ
### ထူးဆန်းလျှင် ဝိုင်း၍အံ့တတ်

၁၃၃၁ ခု ပထမဝါဆိုလဆန်း ၁၅ ရက် (၂၉-၆-၆၉)နေ့က ဖြစ်သည်၊ ရဟန္တာဟု ကျော်ကြားနေသော မိုးညိုဆရာတော် ဦးသူရိယသည် အမရပူရမဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသထံသို့ ကန်တော့ရန် ကြွလာ၏၊ နောက်လိုက်နောက်ပါ ကားကြီးကားငယ် ၁၀ စီးလောက်နှင့် ဒါယကာ ဒါယိကာမများ ဝိုင်းအုံပါလာကြသည်။

အမရပူရ မြို့တွင်း၌မူ ပထမ ဝါဆိုလဆန်း လောက်ကပင် ရောက်နေခဲ့၏၊ ရိပ်သာဖွင့်ရန် ဖြစ်သည်၊ မန္တလေးမြို့ ညောင်စဉ်တန်းမှ ဒါယကာ တစ်ဦးက မိုးညိုမြို့မှ ပင့်လာခဲ့သဖြင့် လိုက်ပါ ကြွလာခြင်း ဖြစ်သည် ဟူသတတ်။

အမရပူရမြို့ထဲ၌ တရားပွဲများ အတော်များများ ဟောပြီးပြီ၊ သူ၏ ရှေးအတိတ်အကြောင်းများကိုလည်း ဟော၏၊ သူ့မိဘများ မကောင်းဆိုးဝါးပြိတ္တာများ ဖြစ်နေသည်လည်း ဟော၏၊ မင်္ဂလေးပါး အစဉ်အတိုင်း ရခဲ့ပုံကိုလည်း ရဲရဲတင်းတင်းဟော၏၊ ရဟန္တာဟုလည်း ဝန်ခံသည်ဟူ၏၊ ဒိဗ္ဗစက္ခုနှင့်ပုဗ္ဗေနိဝါသာနုဿတိကိုလည်း ဝန်ခံ၏၊ လူ့ဘဝတုန်းက အသက် ၃၈ နှစ်အရွယ်အတွင်းမှာ ထောင် ၃၆ ကြိမ် ကျဖူးသည်ဟုလည်း ဟောသတတ်၊ ယခု သက်တော် ၄၂ နှစ်, ရဟန်းသိက္ခာ ၄ ဝါမျှသာ ရှိသေးသည်ဟု ဆို၏၊ နောက်တစ်နေ့ နံနက်ခင်းဩဝါဒတွင် ဆရာတော်က အောက်ပါအတိုင်း ပြန်လည်မိန့်ကြားတော်မူသည်။

"မနေ့တုန်းက မိုးညိုဆရာတော်ဦးသူရိယဆိုတာ ရောက်လာတယ်၊ သူ့အသိုက်အဝန်းတွေနှင့် အုံလို့ ဝိုင်းလို့ မြိုင်လို့ပါပဲ၊ ပြီးတော့ သူက လျှောက်တယ်၊ "တပည့်တော် ဆရာတော်ဘုရားထံ ကန်တော့ရန် လာခဲ့ပါတယ်ဘုရား"တဲ့။

ဒီတော့ ဘုန်းကြီးက "ကောင်းပါ၏, ကောင်းပါ၏" ဒါလောက်ပဲ ပြောပြီး ခဏရပ်နေတယ်၊ သူက "ရဟန္တာ"လို့ ကျော်ကြားနေတာမို့ ဘာမှ မပြောလိုပါဘူး, ဝေလဲ မဝေဖန်လိုပါဘူး၊ အရိယူပဝါဒကံ ထိုက်နေတတ်တယ်၊ တရားတော်ကို ရိုသေသောအားဖြင့် သူ့ကို ဘယ်နှယ်လဲလို့ မမေးပါဘူး, ဘယ်လို အခြေအနေဆိုတာလဲ မစုံစမ်းပါဘူး"။

## နိဗ္ဗာန်နှင့်စပ် စကားရပ်

နောက်တော့မှ နိဗ္ဗာန်နှင့်စပ်တဲ့စကား ရောက်သွားကြတယ်၊ နိဗ္ဗာန်နှင့်စပ်တဲ့ အမေးအဖြေဆိုတာ ဘုရားရှင်လက်ထက်တော်တုန်းကကို အလွန်နည်းပါးပါတယ်၊ ခက်လဲ ခက်ပါတယ်၊ နိဗ္ဗာန်ဆိုတာ "ဒါ" လို့ ထောက်ပြတာ မရှိသလောက် ရှားပါတယ်၊ နိဗ္ဗာန်ရကြောင်း, နိဗ္ဗာန်ရဖို့အကြောင်းတွေသာ ပြောကြတာပဲ၊ ဒါနဲ့ ဘုန်းကြီးက အခု ချပ်ပို့နေဆဲဖြစ်တဲ့ ဒီဃနိကာယ် သီလက္ခန်ပါဠိတော် ကေဝဋ္ဋသုတ်အဆုံးက "ဝိညာဏံ အနိဒဿနံ, အနန္တံ သဗ္ဗတောပဘံ" အစရှိတဲ့ ဂါထာမှာ လာတဲ့အတိုင်း နိဗ္ဗာန်အကြောင်းကို ပြောပြတယ်၊ ပြောပြပြီးတဲ့ အခါမှာ "အခု တပည့်တော်ပြောသွားတဲ့အထဲ အပိုအလိုများ ရှိပါသလား"လို့ သူ့ကို မေးလိုက်တယ်။

ဒီတော့ သူက "မရှိပါဘုရား"တဲ့၊ ဒါပေမယ့် "နိဗ္ဗာန်မှာ အကြောင်းရှိပါတယ်"တဲ့၊ ဒါနဲ့ ဘုန်းကြီးက "အသင်္ခတ အပစ္စယ"လို့ ဘုရားက "အကြောင်းမရှိ" ဟောထားပါတယ်၊ ရှိတာက "နိဗ္ဗာန်ရောက်ကြောင်း"သာ ရှိတာပါလို့ ပြန်ပြောလိုက်ရတယ်။

အဲဒီနောက် သူက "ဒီအမရပူရမြို့ စပါးတောရပ်ကွက်က စပါးတောတိုက်ထဲမှာ ရိပ်သာဖွင့်မလို့ပါဘုရား"လို့ လျှောက်တယ်၊ ဖွင့်ပွဲကိုလဲ ကြွပါလို့ ပင့်တယ်၊ ဘုန်းကြီးက "ရိပ်သာကို ဖြည်းဖြည်း ဖွင့်ဖို့ ကောင်းတယ်, လူတွေက တာရှည်ပါရင် ကောင်းပါရဲ့၊ မပါရင် ကိုယ်နှင့်ဆိုင်းဘုတ်ပဲ ကျန်ရစ်တတ်တယ်"လို့ ပြောလိုက်ရတယ်၊ ဖွင့်ပွဲကိုလဲ ဘုန်းကြီးမှာ အလုပ်တွေ များလို့ မကြွပါရစေနှင့်လို့ ပယ်လိုက်တယ်၊ (အခြားသော ဆရာတော်ကြီးအချို့ကားကြွရောက် အားပေးကြသတဲ့။)

## ကိုယ်ပိုင်ဉာဏ်နှင့် စဉ်းစားကြရမယ်

စဉ်းစားကြရမှာက ရှေးက "ရဟန္တာ"လို့ ကျော်ကြားတဲ့ မထေရ်မြတ်တွေဟာ ဆိတ်ငြိမ်မှုကို အလွန်လိုလားတော်မူကြတယ်၊ စစ်ကိုင်းတောင်ရိုး မဟာဂန္ဓာရုံဆရာတော်ဘုရားတို့ဆိုရင် တဖြည်းဖြည်း လူတွေ များလာပြီး ရှုပ်ထွေးလာတော့ ဂူတောင်အောင်းတော့တာပဲ၊ စာထဲမှာလဲ ဇေတဝန်ကျောင်းတိုက်တို့, ဝေဠုဝန်ကျောင်းတိုက်တို့ တည်တော့မယ်ဆိုတော့ တိတ်ဆိတ် ငြိမ်သက်တဲ့ နေရာတွေကို ရွေးခဲ့ကြတာပဲ၊ အဲလိုတွေ စဉ်းစားကြရမယ်။

"တိတ်ဆိတ်ငြိမ်သက်မှု မရှိဘဲနှင့် သမာဓိ တည်တယ်, တရား ရတယ်ဆိုတာ မလွယ်လှပါဘူး၊ လူတွေဟာ ခေမာထေရီတို့လို အိမ်မကစိတ်တွေ ကျောင်းရောက်တော့ ပြောင်းသွားတယ်ဆိုရင်တော့ ကောင်းပါရဲ့" ဤသို့ စသည်ဖြင့် မိန့်တော်မူလေ၏။

**ကေဝဋ္ဋသုတ်အဆုံး နိဂုံးတွင် နိဗ္ဗာန်သဘောကို ဘုရားကိုယ်တော်တိုင် ဤသို့ ဟောပြထားသည်၊**
**ဆရာတော် အရှင်ဇနကာဘိဝံသက**
**အနက် မြန်မာပြန်ဆိုထား၏။**

**ဝိညာဏံ အနိဒဿနံ, အနန္တံ သဗ္ဗတောပဘံ၊**
**ဧတ္ထ အာပေါ စ ပထဝီ, တေဇော ဝါယော န ဂါဓတိ။**
**ဧတ္ထ ဒီဃဉ္စ ရဿဉ္စ, အဏုံ ထူလံ သုဘာသုဘံ၊**
**ဧတ္ထ နာမဉ္စ ရူပဉ္စ, အသေသံ ဥပရုဇ္ဈတိ၊**
**ဝိညာဏဿ နိရောဓေန, ဧတ္ထေတံ ဥပရုဇ္ဈတိ။**

ဝိညာဏံ-လောကီဉာဏ်များ, အစားစားထက်, ထူးခြားကြံ့ခိုင်, မဂ်ဉာဏ်ဖြင့်သာ သိနိုင်ထသော၊ အနိဒဿနံ-စက္ခုနှင့်စပ်, ဝိညာဏ်စာတ်ဖြင့်, တပ်အပ်ပိုင်ပိုင်, မမြင်နိုင်ထသော၊ အနိဒဿနံ-ညွှန်ပြသမှု, ပမာပြုဖို့, အတုလည်း မရှိထသော၊ အနန္တံ-

---

မှတ်ချက်။ ။ * "နိဗ္ဗာန်မှာ အကြောင်းမရှိဘူး"ဆိုတာ အဆင့်မြင့်မြင့် ဝိပဿနာအားထုတ်နေတဲ့သူတိုင်း သိကြပါ၏၊ သို့ရာတွင် အချို့ပုဂ္ဂိုလ်တို့မှာ ဝေလည်လည် ဖြစ်နေတတ်ကြသည်၊ ဤအချက်ကို ရှင်းလင်းစေလို၍ ဆရာတော်က ဖော်ပြ မေးခွန်းထုတ်လိုက်ခြင်း ဖြစ်ပေသည်။ ထိုစဉ်က ရဟန္တာဟုနာမည်ကြီးခဲ့သော မိုးညိုဦးသူရိယသည် သာသနာတော်သန့်ရှင်းတည်တံ့ပြန့်ပွားရေးလုပ်လာသော နောက်ပိုင်းတွင် လူထွက်ရလေ၏။

ဥပါဒ် ဌီ ဘင်, အစဉ်ကွဲပြား, ရုပ်နာမ်များသို့, အပိုင်းအခြားလည်း မရှိထသော၊ သင္ခတာပဘ်-သမုဒ္ဒရာ, ဆိပ်ကမ်းသာသို့, လိုရာလုံးစုံ, အာရုံကမ္ဘဋ္ဌာန်း, ဆိပ်ကမ်းအဝင်ဝလည်း ရှိထသော၊ သင္ခတာပဘ်- ကိလေညစ်ခြင်း, အပြစ်ကင်းသဖြင့်, ခပင်းဝင်းပြောင်, အရောင်လည်း ရှိထသော၊ ယံ နိဗ္ဗာန်- မအိုမသေ, အမြဲတေသို့, အနေမြဲမှန်, အကြင် နိဗ္ဗာန်သည်၊ အတ္ထိ-ပရမတ်တရား, ရုပ်နာမ်များသို့, ထင်ရှားမသွေ, ရှိပါပေ၏။

ဇတ္ထ နိဗ္ဗာနေ- ရုပ်နာမ်နှစ်ရပ်, ပရမတ်ထက်, ဆတ်ဆတ်ကဲလျှံ, ဤနိဗ္ဗာန်ကြောင့်၊ ဝါ-ဤနိဗ္ဗာန်ကို သိမြင်ရခြင်းကြောင့်၊ အာပေါ စ-ဖွဲ့စည်းလက္ခဏာ, ထင်ရှားစွာဖြင့်, သညာခေါ်မှတ်, အာပေါမဟာဘုတ်ဓာတ်သည်လည်းကောင်း၊ ပထဝီ စ-ခက်မာလက္ခဏာ, ထင်ရှားစွာဖြင့်, သညာဖော်ထုတ်, ပထဝီမဟာဘုတ်သည်လည်းကောင်း၊ တေဇော စ-အငွေ့လက္ခဏာ, ထင်ရှားစွာဖြင့်, သညာဖော်ထုတ်, တေဇောမဟာဘုတ်သည်လည်းကောင်း၊ ဝါယော စ-ထောက်ကန်လက္ခဏာ, ထင်ရှားစွာဖြင့်, သညာဖော်ထုတ်, ဝါယော-မဟာဘုတ်သည်လည်းကောင်း၊ န ဂါဓတိ-အကြောင်းဖုံဖုံ, အားလုံးကုန်သဖြင့်, လုံးစုံပျက်ကျေ, မတည်တံ့နိုင်တော့ချေ။

ဇတ္ထ နိဗ္ဗာနေ-သန္တိလက္ခဏာ, ငြိမ်သက်စွာဖြင့်, သညာခေါ်ရန်, ဤနိဗ္ဗာန်ကြောင့်၊ ဝါ-ဤနိဗ္ဗာန်ကို သိမြင်ရခြင်းကြောင့်၊ ဒီဃဥ္စ-ရုပ်ကလာပ်အလီလီ, စဉ်ဆက်တည်သဖြင့်, အရှည်ခေါ်ရန်, ပုံသဏ္ဌာန်သည်လည်းကောင်း၊ ရဿဥ္စ-ရုပ်ကလာပ်ထိုထို, အနည်းကိုပင်, အတိုခေါ်ရန်, ပုံသဏ္ဌာန်သည်လည်းကောင်း၊ အဏုံ-ရုပ်ကလာပ်အနည်းစု, ပေါင်း၍ပြုသဖြင့်, အဏုမြူခေါ်ကြောင်း, ရုပ်ကလာပ်အပေါင်းသည်လည်းကောင်း၊ ထူလံ စ-ရုပ်ကလာပ်အသီးသီး, ပေါင်းစုမှီးသဖြင့်, အကြီးခေါ်ကြောင်း, ရုပ်ကလာပ်အပေါင်းသည်လည်းကောင်း၊ သုဘာသုဘံ-တင့်တင့်တယ်တယ်, မတင့်တယ်ဟု, နှစ်သွယ်ကွဲပြား, ဣဋ္ဌအနိဋ္ဌရုပ်များသည်လည်းကောင်း၊ ဥပရုဇ္ဈတိ-တရားထုံးအရ, သုံးမကျသဖြင့်, လုံးဝပုံသေ, ချုပ်ရလေသတည်း။

ဇတ္ထ နိဗ္ဗာနေ-အသင်္ခတ, အမတဓာတ်, အမြတ်ထိပ်ပန်, ဤနိဗ္ဗာန်ကြောင့်၊ ဝါ-ဤနိဗ္ဗာန်ကို သိရခြင်းကြောင့်၊ နာမဥ္စ-ခန္ဓာလေးပါး, နာမ်တရားသည်လည်းကောင်း၊ ရူပဥ္စ-နှစ်ဆယ့်ရှစ်ပါး, ရုပ်တရားသည်လည်းကောင်း၊ အသေသံ-တစိုးတစိ, အကြွင်းမရှိရလေအောင်၊ ဥပရုဇ္ဈတိ-အခြေကျနမနေရဘဲ, ကြေမွကိန်းသေ, ချုပ်ရလေသတည်း။

ဝိညာဏဿ-ပုညာပုည, အာနဉ္စဟု, သုံးဝခေါ်တွင်, အဘိသင်္ခါရဝိညာဉ်၏၊ နိရောဓေန-အောက်ထက် ပေါ်လာ, မဂ်လေးဖြာဖြင့်, ဝေးကွာဖော်ကင်း, ချုပ်ပျောက်ခြင်းကြောင့်၊ ဝိညာဏဿ-ရဟန္တာ၏, စုတိခေါ်တွင်, နောက်ဆုံးဝိညာဉ်၏၊ နိရောဓေန-ဥပါဒ် ဌီ ဘင်, အစဉ်စေ့ရောက်, ချုပ်ပျောက်သည့်အတွက်၊ ဇတ္ထ နိဗ္ဗာနေ-ရဟန္တာအရှင်, မျက်မှောက်မြင်သည့်, အသင်္ခတဓာတ်, ဤနိဗ္ဗာန်မြတ်ကြောင့်၊ ဝါ-ဤနိဗ္ဗာန်မြတ်ကို သိမြင်ရခြင်းကြောင့်၊ ဇတံ (ဥပါဒိန္နကဓမ္မဇာတံ)-ခန္ဓာကိုယ်တွင်, ဖြစ်ပျက်စဉ်၍, ပူပင်ရကြောင်း, ဤရုပ်နာမ်အပေါင်းသည်၊ ဥပရုဇ္ဈတိ-နောက်ထပ်မလဲ, ဝဋ်ဇာတ်ခွဲဖို့, အမြဲကိန်းသေ, ချုပ်ရပေသတည်း။ ။

## ဤဂါထာများနှင့်ဆက်နွယ်၍ ဗဟုသုတအဖြစ် မှတ်ဖွယ်ကောင်းသော ရတနသုတ်ပါဠိတော်လာ နိဗ္ဗာန်နှင့်စပ်သောဂါထာ

**ခီဏံ ပုရာဏံ နဝ နတ္ထိသမ္ဘဝံ,**
**ဝိရတ္တစိတ္တာ-ယတိကေ ဘဝသ္မိံ၊**
**တေ ခီဏဗီဇာ အဝိရုဠ္ဟိဆန္ဒာ,**
**နိဗ္ဗန္တိ ဓီရာ ယထာယံ ပဒီပေါ။**

(ယေသံ ခီဏာသဝါနံ-အာသဝေါလေးတန်, ကုန်ဆိတ်ညံသဖြင့်, နိဗ္ဗာန်ရှေးရှု, မျက်မှောက်ပြုတော်မူကြကုန်သော အကြင်ရဟန္တာပုဂ္ဂိုလ်တို့၏၊) ပုရာဏံ-ရဟန္တာမဖြစ်မီ, ရှေးအတိက, အလီလီ အတန်တန်, အဟောင်းဖြစ်သော ကုသိုလ် အကုသိုလ်ကံသည်၊ ခီဏံ-တဏှာအမျိုး, အမြစ်ကျိုးသဖြင့်, အကျိုးပေးရန်, အားမသန်ဘဲ, မချန်အားလုံး, ကုန်ဆုံးခဲ့လေပြီ။

နဝံ-ရဟန္တာအဖြစ်မှ, နောက်ကာလ၌, ပြုကြပေလတ်, အသစ်အသစ်ဖြစ်သော ကံသည်၊ နတ္ထိသမ္မဝံ-အမြစ်ကျိုးပြီး, သစ်ပင်ကြီးမှ, အသီးမဆင့်, လေအပွင့်သို့, အသင့်မားမား, ကျိုး မပွားဘဲ, ထင်ရှား တည်ရှိနေလေ၏၊ တေ (ခီဏာသဝါ)-အာသဝေါလေးတန်, ကုန်ဆိတ်ညံ့သဖြင့်, နိဗ္ဗာန်ရှေးရှု, မျက်မှောက်ပြုတော်မူကြကုန်သော ထိုရဟန္တာပုဂ္ဂိုလ်တို့သည်၊ အာယတိံကေဘဝသ္မိံ-၌ ဘဝ၏, စုတိလွန်မြောက်, ရောက်ရမည့်ကာလ, နောက်ဘဝ၌၊ ဝိရတ္တစိတ္တာ - ရောက်ရှိလိုခြင်း, အာသာကင်း၍, သန့်ရှင်းသောစိတ် ရှိကြကုန်သည်၊ ခီဏဗီဇာ-မျိုးစေ့အမှန်, မီးမြိုက်ဟန်သို့, မင်္ဂညဏ်မီးဖြင့်, ဖျက်ဆီးအပ်ပြီးသော ကံမျိုးစေ့ ရှိကြကုန်သည်၊ အဝိရုဠ္ဟိဆန္ဒာ-သံသရာတွင်, ခန္ဓာပင်ဖြင့်, စည်ပင်ဖို့ရာ, အာသာဆန္ဒ, မရှိကြကုန်သည်၊ (ဟုတွာ-ဖြစ်၍၊) အယံ ပဒီပေါ ယထာ-အလျှံထိန်ငြီး, ဤဆီမီး၏, ငြိမ်းပြီးသည့်နောက်, တစ်စုံတစ်ခုသော အရပ်သို့ မရောက်သကဲ့သို့၊ နိဗ္ဗန္တိ-မည်သည့်ဌာန, မတွကြဘဲ, ကာလပုံသေ, အေးငြိမ်းတော်မူကြလေကုန်၏။

# ပညာသင်ကြားခဲ့ရာ မိခင်တိုက်မကြီးသို့ အမှတ်တရ ကြွရောက်ခြင်း

## တပည့်ကြီးကို တမ်းတခေါ်ငင်

အချိန်အားဖြင့် ၁၃၃၂ ခု တော်သလင်းလအတွင်းက ဖြစ်သည်၊ ပခုက္ကူမြို့ မဟာဝိသုတာရာမာဓိပတိ အဘိဓဇမဟာရဋ္ဌဂုရု ဆရာတော်ဘုရားတော်ဘုရားကြီးသည် တပည့်ကြီး အရှင်ဇနကာဘိဝံသကို အထူး သတိရနေတော်မူဟန်ရှိ၏၊ သာသနာရေး အကြောင်းအရာများကိုလည်း ဆွေးနွေးတိုင်ပင်တော်မူလိုသည်၊ ၁၃၃၀ ပြည့်နှစ်က မိမိကိုယ်တိုင် အမရပူရမြို့ရှိ တပည့်ကြီး၏ မဟာဂန္ဓာရုံကျောင်းတိုက်သို့ ရောက်ခဲ့၍လည်း တပည့်ကြီး၏ သာသနာရေးအလုပ်တွေ အောင်မြင်နေပုံကို မျက်မြင်ကိုယ်တွေ့ သိခဲ့ရ၏၊ အားရတော်မူလှသည်။

မိမိတို့ တစ်ချိန်က အရောင်ထွက်၍ အကွက်ပေါ်အောင် သွေးပေးလိုက်သော ကျောက်ကောင်းတစ်စေ့ (သို့မဟုတ်) ပြုပြင်စောင့်ရှောက် မွမ်းမံပေးလိုက်သော သာသနာ့သစ်ပင်တစ်ပင်သည် ယခုအခါ ဖူးပွင့်ဝေခိုင်၍ အသီးတွေ မြိုင်နေလေပြီကိုလည်း ကိုယ်တော်တိုင် တွေ့သိခဲ့ရ၏၊ ဆရာတော်ဘုရားကြီးသည် အလွန် ကျေနပ်နေတော်မူဟန် ရှိသည်။

ယခုအခါဆရာတော်ဘုရားကြီးသည်သက်တော် ၉၀ ကျော်နေပြီ ဖြစ်သော်လည်း မြန်မာပြည်သာသနာရေးကိစ္စအတွက် ကြောင့်ကြစိုက်လျက်ရှိတော်မူသေး၏၊ စိတ်စောတော်မူလျက် ရှိသေး၏၊ ထို့ကြောင့်ပင် ...

**"သုန္ဒရော ယော မဟာထေရော,**
**မြန်မာ့ရဋ္ဌဓဇူပမော၊**
**မြန်မာ့သာသနကိစ္စေသု,**
**ပဓာနင်္ဂစုရန္ဓရော။"**

ဟူ၍ ပခုက္ကူသာသနာဝင်ကျမ်းစာ (၇၅)၌ ချီးကျူးထားတော်မူခြင်း ဖြစ်ပေသည်၊ အဓိပ္ပာယ်မှာ ... "ဆရာတော်သုန်"ဟူ၍ လေးစားမြတ်နိုးစွာ ခေါ်ဝေါ်အပ်သော ဆရာတော်ဘုရားကြီးသည် (အဘိဓဇမဟာရဋ္ဌဂုရုဟူ၍ ဘွဲ့တံဆိပ်တော်ဆက်ကပ်ခံယူတော်မူသဖြင့်) မြန်မာနိုင်ငံ၏ တလွင့်လွင့် တလူလူ လေထဲတွင် လွှင့်ထူထားသော အမြင့်ဆုံး အလံတော်ပမာ(တံခွန်ပမာ) ဖြစ်တော်မူပါပေ၏၊ မြန်မာ့တိုင်းပျော် သာသနာတော်ကိစ္စတို့၌ အရေးကြီးသော အဓိကကျသော တာဝန်တို့ကိုလည်း ဆောင်တော်မူလျက်ရှိပါပေ၏"ဟူ၍ ဖြစ်သည်။

ဤဆိုခဲ့ပြီး ဂုဏ်ပုဒ်များအတိုင်းပင် ဆရာတော်ဘုရားကြီးသည် သာသနာတော်အရေး ဆွေးနွေးတိုင်ပင်လိုလှ၍၊ သက်တော်ကလည်း ၉၀ ကျော်နေပြီ ဖြစ်သဖြင့် ဟိုဟိုဒီဒီ ခရီးသွား၍ သိပ်မကောင်းလှတော့၊ ထို့ကြောင့်...

“မောင်ဇနက...ဖြစ်နိုင်လျှင် ပခုက္ကူတိုက်ကြီးသို့ သာသနာရေး ဆွေးနွေး တိုင်ပင်ရန် ခေတ္တလာပါ” ဟူ၍ မှာလေသည်။

## ဆရာတပည့်များ ပြန်လည်ဆုံတွေ့

ထို့ကြောင့် ဆရာတော်အရှင်ဇနကာဘိဝံသက “ဒကာ ထိန်ဝင်း လိုက်နိုင်လျှင် ပခုက္ကူကို သွားရအောင် လာပါ”ဟူ၍ ရန်ကုန်သို့ လှမ်း၍ မှာလေ၏၊ ထို့ကြောင့် ဒကာ ထိန်ဝင်းသည် ချက်ချင်း မန္တလေး အမရပူရသို့ လိုက်သွားရ၏၊ ရောက်လျှင် ခရီးကို စီစဉ်၍ လေယာဉ်ဖြင့် ကြွကြ၏၊ ရောက်မည့် ရက်ကိုလည်း ကြိုတင် အကြောင်းကြားထားသည်၊ ပခုက္ကူကွင်းသို့ လေယာဉ်ဆင်းလျှင်ပင် လာ၍ ကြိုသော ကားနှစ်စီးသုံးစီး၌ သာသနာ့အလံများ ထိုးထားသည်ကို တွေ့ကြရ၏ ဆရာတော် အရှင်ဇနကာဘိဝံသက “ဒကာ ထိန်ဝင်း... ကားတွေမှာ သာသနာ့အလံတွေ ထိုးလို့ပါလား”ဟု မိန့်သည်။

မဟာဝိသုတာရာမတိုက်ကြီး အတွင်းသို့ ရောက်သောအခါ အဘိဓဇ ဆရာတော်ဘုရားကြီး၏ အထံတော်သို့ ဦးတည်သွား၍ ချဉ်းကပ်ကြ၏၊ ဆရာတော်ဘုရားကြီးကို အားပါးတရ ဦးချကန်တော့ကြ၏၊ နီးစပ်ရာ စာချဘုန်းကြီးများလည်း ဆရာတော် အရှင်ဇနကာဘိဝံသထံ လာရောက်ကန်တော့ကြ၏၊ ဝမ်းမြောက်ဝမ်းသာ နှုတ်ဆက်ပြောဆိုကြသည်၊ ထို့နောက် ဒကာထိန်ဝင်းက...

“တပည့်တော်တို့ကို လာကြိုတဲ့ ကားတွေမှာ ဘာလို့ သာသနာ့အလံတွေ ထိုးတာလဲဘုရား”ဟု သူ့ဝါသနာအတိုင်း ဒိုးဒိုးဒေါက်ဒေါက် ထိန်ချန်မထားဘဲ လျှောက်လေရာ အဘိဓဇ ဆရာတော်ဘုရားကြီးက...

“ငလုံးက သူ့ဆရာ လာလျှင် အလံတွေဘာတွေနှင့် မြိုင်မြိုင်ဆိုင်ဆိုင် ကြိုဆိုပါဆိုလို့ စီစဉ်ခွင့်ပေးလိုက်ရတာပဲကွ” ဟု မိန့်တော်မူလေသည်။

ဆရာတော် အရှင်ဇနကာဘိဝံသကား သူ့ဆရာတော်ဘုရားကြီး အမိန့်ရှိနေသည်ကို ကျေနပ်နေတော်မူဟန် ရှိ၏၊ ပြုံးနေတော်မူသည်။

မှတ်ချက်။ ။ဆရာတော်ဘုရားကြီးအမိန့်ရှိသော “ငလုံး”ဟူသည်ကား အခြားသူမဟုတ်, ပခုက္ကူ အဘိဓဇ ဆရာတော်ဘုရားကြီး၏ တူတော်သူပင် ဖြစ်၏၊ မန္တလေးမှာ နေသည်၊ ဆရာတော် အရှင်ဇနကာဘိဝံသ၏ စာအုပ်များထွက်တိုင်း သပ်သပ်ရပ်ရပ်ဖြစ်အောင် ချုပ်လုပ်ပေးသူဖြစ်၏၊ ထို့ကြောင့် “ဆရာလုံး”ဟု ခေါ်ကြသည်၊ ကဝိလက္ခဏာစာအုပ်ဆိုင်ပိုင်ရှင် ဆရာလုံးပင် ဖြစ်၏၊ တစ်ချိန်က ပခုက္ကူတိုက်ကြီးထဲမှာ နေစဉ် ရဟန်းဘဝနှင့် ဆရာတော် အရှင်ဇနကာဘိဝံသထံ စာလိုက်ဖူး၏၊ ထို့ကြောင့် ဆရာအဖြစ်နှင့် လေးစားကြည်ညိုနေသူ ဖြစ်သည်၊ ယခု ဆရာတော် အရှင်ဇနကာဘိဝံသ ပခုက္ကူသို့ ကြွမည်ဆိုသည်ကို သိထား၍ ဒကာ မောင်လုံးက ကြိုတင် မှာကြားထားခြင်းဖြစ်ဟန် တူသည်။

## သာသနာရေးဆွေးနွေးတိုင်ပင်

ပခုက္ကူမဟာဝိသုတာရာမတိုက်ကြီးထဲမှာ ဆရာတော် အရှင်ဇနကာဘိဝံသ ရောက်လာသည့်နေ့က စ၍ စာချဘုန်းကြီးများ, ရှေးက သိဟောင်း ကျွမ်းဟောင်းပုဂ္ဂိုလ်များ တဖွဲဖွဲ လာရောက် နှုတ်ဆက်ကြ၏၊ ဝမ်းသာစကား ပြောကြ၏၊ သာသနာတော်အရေးကိုလည်း ဆွေးနွေးတိုင်ပင်ကြ၏၊ အဘိဓဇ ဆရာတော်ဘုရားကြီးသည်လည်း တပြုံးပြုံးနှင့် ကျေနပ်နေတော်မူဟန်ရှိ၏။

ထိုစဉ်က ချဉ်းကပ်လာကြသည့်အထဲတွင် အနားကခွာသည်ဟူ၍ မရှိလောက်အောင် ချဉ်းကပ်သော ဆရာတော်တို့မှာ, တိုက်အုပ်ဆရာတော် ဦးနန္ဒိယ, တိပိဋကရေဆရာတော် ဦးနေမိန္ဒ စသူတို့ပင် ဖြစ်ကြ၏၊ တိုက်အုပ်ဆရာတော် ဦးနန္ဒိယကဆိုလျှင် ဆရာတော် အရှင်ဇနကာဘိဝံသ အုန်းစိမ်းရေ ကြိုက်တတ်မှန်းသိ၍ နံနက်တိုင်း ၉ နာရီခန့်တွင် ကပ္ပိယဒါယကာတစ်ယောက်ကို အုန်းပင်ပေါ်တက်ခိုင်း, အုန်းသီးတွေ ခြွေချ, အားရပါးရ အုန်းစိမ်းရေတွေ နေ့စဉ်ကပ်လေသည်၊ တိုက်အုပ်ဆရာတော် ဦးနန္ဒိယသည် တစ်ချိန်တုန်းက ဤတိုက်ကြီး၌ စာချနေသော ဆရာတော်အရှင်ဇနကာဘိဝံသထံမှာ စာလိုက်ဖူးသည် ဟူ၏၊ ဤသို့အားဖြင့် တစ်ကြိမ်တစ်ခါ စာလိုက်ဖူး, တစ်ကျမ်းတစ်ဖွဲ့ စာတက်ဖူးလျှင်ပင် ဆရာအဖြစ်အသိအမှတ်ပြု၍ ခံယူတတ်, လေးစားတတ်, ကျေးဇူးသိတတ်သော အမူအကျင့်ကလေးတို့ကား မြတ်နိုးဖွယ် ကောင်းလေစွ၊ ယခုခေတ်တွင် ထိုသို့ ခံယူမှုများ ရှားပါးကုန်ကြပြီ။

## အခြေခံကစ၍ ပျိုးထောင်ကြမှ

ဤနည်းအားဖြင့် ဆရာတပည့်များသည် မဝသော တွေ့ဆုံခြင်းဖြင့် တွေ့ဆုံကြကာ အချိန်များစွာ ယူပြီးလျှင် အနာဂတ်သာသနာရေးများ ဆွေးနွေးတိုင်ပင်ခဲ့ကြ၏၊ ဆရာတော် အရှင်ဇနကာဘိဝံသကား ပြောနေကျ ရေးနေကျ မူဟန်အတိုင်းပင် "အနာဂတ်သာသနာကို ပြုပြင်ရာ၌ အခြေခံမှစ၍ တောရော မြို့ပါအနှံ့ ပြုပြင်ရမည်၊ ရွာတိုင်းရွာတိုင်းမှာ ကျောင်းထိုင်ဘုန်းကြီးကောင်းကောင်း အရည်အချင်း ပြည့်ပြည့် လိုသည်၊ ဝိနည်းလေးစားရမည်, ရပ်ရွာရှိ ကလေးသူငယ်တို့ကို အသိဉာဏ်ဖွင့်ပေးရမည်, ဤကိစ္စများ အောင်မြင်ရေးအတွက် အခြေခံဒကာ,ဒကာမများ နားလည်ရမည်, ရဟန်း သာမဏေများ သဘောပေါက်ရမည်, အစိုးရလဲ ပါရ မည်, ဒါမှ အောင်မြင်မည်"စသည်ဖြင့် မိန့်တော်မူ ရင်းဆွေးနွေးတိုင်ပင်ကြသည်၊ ကျေးဇူးရှင်အဘိဓဇ မဟာရဋ္ဌဂုရု ဆရာတော်ဘုရားကြီးကလည်း အားတက်တော်မူ၏၊ အသက်တော် ၉၀ ကျော်နေပြီ ဖြစ်သော်လည်း ဤသို့ သာသနာတော်အရေးကို ဆွေးနွေးတိုင်ပင်နေရသောအခါ သက်တော် ပြန်၍ ငယ်လာသလို ထင်လေသလား မပြောတတ်ပေ၊ ရွှင်ရွှင်ပျပျနှင့် အားပါးတရ မိမိမြင်သမျှကို တင်ပြမိန့်ကြားတော်မူနေလေသည်။

## အိုတယ်ရယ်လို့ မထင်သေး

ဆရာတော်ဘုရားကြီးသည် နဂိုမူလ သဘာဝကပင် ခပ်ရွှင်ရွှင် နေတော်မူတတ်၏၊ အရွှန်းအသောကိုလည်း တစ်ခါတစ်ရံ ကြွန်ခြေရရနှင့် သောတတ်၏၊ ဆရာတော်ဘုရားကြီးသည် ဘုန်းကံလည်း ကြီးမားတော်မူ၏၊ သက်တော်အားဖြင့်လည်း အရှည်ဆုံး ဖြစ်တော်မူသည်၊ ခန္ဓာကိုယ် ဥပမိအားဖြင့် အရပ်တော်ကြီးက မားမား, ကိုယ်လုံးတော်ကြီးက ထွားထွားနှင့် ခံ့ညားတော်မူလှ၏။

နိကာယ် ငါးရပ် ပိဋကတ် ပို့ချမှုတာဝန်တို့ကို ဆောင်ရွက်တော်မူရုံသာမက သီလအားဖြင့် မေရု, သမာဓိအားဖြင့်လည်း မြေအထု ဖြစ်တော်မူ၏၊ ထို့ကြောင့်ပင် နိုင်ငံတော်အစိုးရ၏ "တစ်တိုင်းပြည်လုံး၏ဆရာ"ဟူသော အဓိပ္ပာယ်ရသည့် "မဟာရဋ္ဌဂုရု"ဘွဲ့တံဆိပ်တော် ဆက်ကပ်ခြင်းကို ခံတော်မူရသည်၊ ထိုအခါ ပို၍ပင် ကျက်သရေရှိလာသလို ဖြစ်တော့၏။

နိုင်ငံတော်အစိုးရက ဂုဏ်နှင့်ကိုက်၍ ထိုက်တန်အောင် ဘွဲ့တံဆိပ်တော် ဆက်ကပ်ခြင်းပင် ဖြစ်ပေသည်။

ဆရာတော်ဘုရားကြီးမှာ သက်တော် ၉၀ ကျော်

လာသည့်တိုင် သာသနာရေးနှင့် ပတ်သက်လာလျှင် စိတ်ဓာတ်တော်က အားတက်ဆဲ, ငယ်ရွယ်ဆဲလို ဖြစ်နေသော်လည်း ခန္ဓာကိုယ် ဥပဓိရုပ်ကား ဇရာ ဒုဗ္ဗလ သဘာဝကို ပြပြနေလေပြီ၊ အထိုင်အထတို့တွင် သတိထားကြရ၏၊ လဲမသွားအောင် တပည့်တို့က ဖေးကြရ, ကူကြရလေပြီ၊ အနားတွင် အမြဲပြုစုကြမည့် ရဟန်းငယ် သာမဏေငယ်များကိုပါ စီစဉ်လာကြရတော့၏။

## ကြီးရင်တော့ ခက်ဦးမယ်

တစ်နေရာမှ တစ်နေရာသို့ ဆရာတော်ဘုရားကြီး ကြွသွားလိုသောအခါ နေရာမှ အထတွင် ဒိုင်းခနဲ လဲမသွားအောင် အနီးရှိ တပည့်တို့က ဖေးထားပေးကြရ, ထိန်းထားပေးကြရ၏၊ ဤသို့ ဖေးကြ, မကြရသော အကြိမ်ပေါင်း များလာသောအခါ ဆရာတော်ဘုရားကြီးက...

"အင်း-ငါ့မလဲကွာ ခုချိန်ကပဲ ဒီလိုဖြစ်နေပြီ၊ ကြီးရင်တော့ ခက်ဦးမယ်"ဟု မိန့်လိုက်ရာ အနီးနေ တပည့်တို့မှာ သောခနဲ သဘောကျကြတော့၏၊ ဤသို့လည်း ဆရာတော်ဘုရားကြီးက တည်တည်နှင့် ရွှင်ရွှင် မိန့်တတ်သည်။

တပည့်ကြီး အရှင်ဇနကာဘိဝံသလည်း မဟာဝိသုတာရာမတိုက်ကြီးသို့ ရောက်နေသည်မှာ တစ်ရက်, နှစ်ရက်, သုံးရက်ရှိလေပြီ၊ သာသနာရေး အကြောင်းအရာများကိုလည်း အတော်စုံစုံ တိုင်ပင်ဆွေးနွေးပြီးကြကုန်ပြီ၊ ဆရာတော်ဘုရားကြီးလည်း အလွမ်းပြေ၍ ကျေနပ်လောက်ပေပြီ။

ထို့ကြောင့် ဆရာတော် အရှင်ဇနကာဘိဝံသသည် နောက်တော်ပါ ဒကာထိန်ဝင်းနှင့်အတူ ပြန်ခဲ့ကြလေ၏၊ လိုက်ပို့ကြသူများလည်း လေယာဉ်ကွင်းတွင် လွမ်းဆွတ်စွာဖြင့် ငေး၍ ကျန်ရစ်ခဲ့ကြသည်။

## သာသနာပြုရာမှာ ကပ္ပိယကောင်းကောင်းရှိဖို့ အရေးကြီးတယ်

### ဝိနည်းဆိုင်ရာဩဝါဒများ

ယနေ့ နံနက်စောစောကား ဆောင်းကာလ ကုန်လုလု ဖြစ်၍ မြူခိုးနှင်းငွေ့တို့က မှုန်ပျပျ, အအေးဓာတ်က မကုန့်တကုန်, နွေအဟုန်သို့လည်း မရောက်တတ်သေးသောအချိန်၊ "နာတိ သီတံ, နာတိ ဥဏှံ"ဟု ဆိုရသော အခါသမယ ဖြစ်ပေသည်၊ အရှင်ဇနကာဘိဝံသ ဆရာတော်ဘုရားကြီးသည် အကြောင်းစပ်ရာစပ်ရာ တိုက်ဆိုင်လာသလို ဩဝါဒပေးလေ့ရှိရာ ရံခါ လူမှုရေးနှင့်ပတ်သက်သော အကြောင်းအရာ, ရံခါ ကျောင်းတိုက်တာစည်းကမ်း, ရံခါ ယဉ်ကျေးမှုနှင့်ပတ်သက်သော အကြောင်းအရာများ ဖြစ်၏၊ ယနေ့ကား ဝိနည်းကြောင်းနှင့်စပ်သော အချက်အလက်များဖြစ်သည်။

"မနေ့တုန်းက ဒကာကြီးကျော်က လျှောက်တယ်, လွန်ခဲ့တဲ့ရက်ကတဲ့, သူ့အလွန် မူးဝေနေသတဲ့၊ မူးတာမှ အတော်ကို မူးတာတဲ့၊ ဒီတော့ ရုတ်တရက်များ သူတိမ်းကပါး ယိမ်းကပါး ဖြစ်သွားရင်တဲ့, ဘာမျှ စာရင်းအင်းတွေလဲ ရှင်းခဲ့နိုင်မှာ မဟုတ်ဘူးတဲ့၊ ဒါ့ကြောင့် ဝေယျာဝစ္စကရ ကပ္ပိယကာရက တစ်ဦးလောက်တော့ ရှာဖွေပြီး စာရင်းအင်းတွေ တွဲကိုင်ဖို့, ဝတ္ထုကြေးငွေတွေကိုလဲ ခွဲကိုင်ဖို့ သင့်တော်လောက်ပြီ ထင်ပါတယ်ဘုရား"တဲ့။

အင်း-ဒါလဲ ဟုတ်တာပဲ၊ ဒကာကြီးမှာ ငွေတွေကိုင်ရတာက ငွေအမျိုးမျိုး အစားစား, ဘုန်းကြီးဆိုင်ရာကကိုပဲ...

၁။ သံဃာတွေ စာမေးပွဲအောင်လို့ ရတဲ့ ဆုရာတွက် ဆိုတာက တစ်မျိုး၊ အဲဒါက စာမေးပွဲဖြေ သွားကြတဲ့ သံဃာများ ကားခ, ရထားခနှင့် ဓမ္မာစရိယ စာဖြေပုဂ္ဂိုလ်များ ဆွမ်းစားဖို့ သုံးရတယ်။

၂။ ဘုန်းကြီးကို ရည်မှန်းပြီး ပုဂ္ဂလိကအဖြစ်နှင့် ဟိုက ဒီက လှူကြလို့ ရတဲ့ နဝကမ္မ၊ အဲဒါက စာချတဲ့ သံဃာကြီးများဆွမ်းဟင်းနှင့် စတုမဓူ, ဓာတ်ပတ်စတဲ့ ဆေးဖိုးအတွက် သုံးရတယ်။

၃။ ဦးမောင်ကြီးနဝကမ္မ၊ အဲဒါကတော့ ကျောင်းတိုက်အတွင်း ပြုပြင်စရာရှိတာတွေ ပြုပြင်ရ, ရေ, မီး စသည်တို့အတွက် အသုံးပြုရတယ်။

၄။ ဘုန်းကြီးရဲ့ အဂ္ဂမဟာပဏ္ဍိတ နဝကမ္မအလှူငွေ၊ ဒါကျတော့ ဘုန်းကြီးအတွက် စားရေးသောက်ရေးမှာ စီစဉ်ရတယ်။

၅။ ပြီးတော့ ဟိုက ဒီက သံဃာတော်များအတွက် ရည်မှန်းပြီး လှူဒါန်းကြတဲ့ သံဃိကနဝကမ္မတွေ၊ အဲဒါတွေလဲ ဒကာကြီးကပဲ ကိုင်နေရတယ်၊ အဲဒီငွေတွေကတော့ သံဃာတော်များအတွက် ဆန် ဆီ ဆား ငရုတ် ကြက်သွန် ငံပြာရည် ပဲနှင့် ထန်းလျက် ချင်း စသည်တို့အတွက် အသုံးပြုရတယ်။

၆။ စာအုပ်ဆိုင်ရာ ငွေကြေးတွေ၊ အဲဒါကလည်း ဒကာကြီးကတစ်ဆင့် ကိုင်တွယ်သုံးစွဲနေရတာပဲ၊ သံဃာတော်များအတွက် နေ့ ဆွမ်းဟင်းတွေ ဖြစ်ဖို့ရယ်, ဆွမ်းဟင်းချက်ပေးကြတဲ့ ဒကာမနှစ်ယောက်အတွက် ချီးမြှင့်ငွေရယ်, ဒီထဲက ပေးနေရတာပဲ။

၇။ ပြီးတော့ သံဃာတော်များ တစ်ပါးစီ တစ်ပါးစီက လာအပ်တဲ့ ငွေတွေ၊ ဒါတွေကိုလဲ ဒကာကြီးက စာရင်းဇယားတွေနှင့် အဝင်အထွက် မမှားရအောင် သူ့မှာ အတော်လုပ်နေရတာ၊ ဒကာကြီးကျော်တစ်ယောက်တွင်ပဲ ငွေတွေက အမျိုးမျိုး ထိန်းသိမ်း ကိုင်တွယ်နေရတာ၊ ဒီတော့ ခေါင်းမူးမယ်ဆိုလဲ မူးချင်စရာပါပဲ။

## အကျကပ္ပိယရှိဖို့ စဉ်းစားရ

အင်း-ခုအထိ ဘုန်းကြီးတို့ကျောင်းတိုက်မှာ အပ်အပ်စပ်စပ်ဖြစ်အောင် စီမံနိုင်တာဟာ ဒီဒကာကြီးကျော် ရှိနေလို့ပဲ, နို့မို့ရင် မလွယ်ဘူး၊ ဒကာကြီးကျော်က ဝိနည်းနှင့် ပတ်သက်လို့ အတော်ကို နားလည်နေပြီ၊ နို့ပေမယ့် အသက်ကြီးလာပြီမို့ ဘုန်းကြီးလဲ စဉ်းစားထားပါတယ်။

မှန်းထားတာက အောင်ခန့်နှင့် ဝံသိက၊ ဒီသံဃိက နဝကမ္မတွေနှင့်ပတ်သက်လို့ ဆက်သွယ်ပြီး အလုပ်လုပ်ဖို့၊ အဲဒါ ဝံသိကက မြကြင်နှင့် ဆက်သွယ်ပြီး သွားလို့ ပြီးပါရော။ (ပရိသတ်က လေးစားတည်ငြိမ်စွာ ရယ်ကြသည်။)

ဒါနဲ့ တစ်ခါ ဒကာကြီးကျော်သား၊ ဒီကျောင်းလူထွက်၊ ဝိနည်းကိုလဲ နားလည်ပြီးသား၊ သူ့ကို ထိန်းသိမ်းဖို့ လွှဲထားပါလားလို့ ဒကာကြီးကျော်ကို ပြောဖူးပါတယ်။

အဲဒါကျတော့ စာချဘုန်းကြီး ဦးကုဏ္ဍလနှင့် ဆက်သွယ်ပြီး လုပ်ရမှာ၊ သူတို့ ညီအစ်ကိုချင်းဆိုတော့ တောင်းကောင်းတယ်။

အဲလို သာသနာ ပြုရာမှာ ကပ္ပိယ ကောင်းကောင်း ရှိရမှာ, မရှိလို့ ဖြစ်ကို မဖြစ်ပါဘူး။

**(၁၃၃၁ ခု တပို့တွဲလဆုတ် ၁၂ ရက်နေ့ နံနက်ခင်းဩဝါဒ)။**

## မအပ်မရာ မဖြစ်သင့်ပါ

"သာသနာပြုတဲ့ နေရာမှာ မအပ်မရာတွေနှင့် လျှောက်လုပ်နေလို့လဲ မဖြစ်ပါဘူး, "ဗုဒ္ဓသာသနာကို ပြုပါတယ်"ဆိုပြီး ဗုဒ္ဓမကြိုက်တဲ့ မအပ်မရာတွေနှင်းလုပ်နေလို့ ဘာအဓိပ္ပာယ် ရှိမှာလဲ၊ အပိုပဲပေါ့၊ ဒါကြောင့် အပ်အပ်စပ်စပ် ဖြစ်အောင် စီမံပေး မယ့် ကပ္ပိယကာရက ကောင်းကောင်း ရှိမှ, ခုန တုန်းက ပြောတဲ့ ဒကာကြီးကျော်သား "ရဟန်း လူထွက်" ဝိနည်းကို နားလည်ပြီးသား၊ လူထွက်ပြီး အတန်းတွေတက်လို့ ဘီအက်စီ အောင်သွားတာ၊ အခု အထက်တန်းပြဆရာ လုပ်နေတယ်၊ မောင်အောင်လွင်၊ အေး-သူဆိုလျှင် စာချဘုန်းကြီး ဦးကုဏ္ဍလနှင့် ဆက်သွယ်ပြီး အလုပ်လုပ်လို့ ဖြစ်တယ်၊ သူတို့ ညီ အစ်ကို အချင်းချင်းဆိုတော့ ဝိနည်းထုံးစံအရ တောင်းကောင်းတယ်၊ သူ့ကို ဖြစ်နိုင်အောင် စီမံကြရမယ်"။

ဤသို့သော ဩဝါဒအရ နောက်ပိုင်းတွင် ဆရာတော်က စာချဘုန်းကြီး ဦးကုဏ္ဍလာဘိဝံသကို ခေါ်၍ ရန်ကုန်မြို့ ဒကာ ထိန်ဝင်းထံသို့ လွှတ်တော့သည်။

ဒကာ ထိန်ဝင်းထံသို့ စာရေးရာတွင်လည်း... "ကျောင်းတိုက်အတွက် နားလည်သူကပ္ပိယကာရက ကောင်းကောင်း မရှိ၍ မဖြစ်ပါ၊ မအပ် မရာတွေနှင့် သာသနာပြုနေလို့ အပိုပါပဲ၊ ဘုရား အလိုတော်ကျ အပ်အပ်စပ်စပ် စခန်းသွားနိုင်မှ သဘာဝကျပါမည်၊ အပ်စပ်သောနည်းနှင့်မှ မဖြစ်နိုင်လျှင် သံဃာတွေ လျှော့ပစ်တော့မည်"ဟု ရေးသတတ်။

ထို့ကြောင့် ဒကာ ထိန်ဝင်းတို့က သူ့ညီ ဗိုလ်မှူး ဗလတို့မှ တစ်ဆင့် ထိုအချိန်က မန္တလေးအနောက်မြောက်တိုင်းတွင် တာဝန်ယူနေရသော ဗိုလ်မှူးကြီး စိန်လွင် (နောက်-သာသနာရေးဝန်ကြီးဌာနဝန်ကြီး ဗိုလ်မှူးချုပ်စိန်လွင်)က ရခိုင်ပြည်နယ်တွင် သွားရောက် အမှုထမ်းနေသော ဒကာကြီးကျော်၏သား မောင်အောင်လွင်ကို အမရပူရသို့ နေရာပြောင်း လွှဲအမှုထမ်းစေ၍ မဟာဂန္ဓာရုံတိုက်၏ ကပ္ပိယကာရက ဖြစ်အောင် ရွက်ဆောင်ပေးကြသောကြောင့် အစစ အရာရာ ပြေလည်မှု ဖြစ်သွားကြရတော့သည်၊ အကြောင်းအားလျော်စွာ ဒကာကြီးကျော်မှာလည်း ကျန်းမာရေး ပြန်လည်ကောင်းမွန်လာပြီးလျှင် ယနေ့ ၁၃၄၅ ခုနှစ်တိုင်အောင် အသက်ထင်ရှားရှိလျက် နေရပါတော့သည်။

## ရဟန်းနှစ်ပါး ဘယ်သူ မှန်သလဲ

ထို့နောက် ဆရာတော်က ဆက်လက်ပြီး ဩဝါဒပေးနေတော်မူပြန်သည်၊ "ဘုရားလက်ထက်တော်တုန်းက ရဟန်းနှစ်ပါးဟာ ဘုရားဖူးကြမယ်ဆိုပြီး ဘုရားရှိရာကို အဝေးကြီးကနေ လာခဲ့ကြတယ်၊ တောရပ်မြိုင်တန်းကို ဖြတ်သန်းပြီး လာကြရတာဆိုတော့ လမ်းမှာ ရေဆာမွတ်ကြတယ်၊ ရေဆာလို့ ရေကို ရှာတော့ ရေတွင်းတွေ့ကြပါတယ်၊ ဒါပေမယ့်လည်း သောက်မယ်လုပ်တော့မှ ရေစစ်ပါမလာတာကို သိရတော့ အခက်ကြုံသွားကြတယ်၊ "ရေခက်ကပြီ, ဘယ့်နှယ်လုပ်ရပါ့, ဗုဒ္ဓဘုရားက ရေကို စစ်ပြီးမှ သောက်ရမယ်လို့ ဆိုတယ်၊ မစစ်ဘဲ သောက်ရင် အပြစ်သင့်စေလို့ ပညတ်ထားတယ်၊ ဖွတ်ကဲသောက်ရင်လဲ အာဏာပညတ် မိန့်မှတ်ထားတာကို ချိုးဖောက်ရာကျတော့မယ်၊ ကဲ-မသောက်တော့ပါဘူးလေ"ဆိုပြီး တစ်ပါးက မသောက်ဘဲ နေလိုက်တယ်။

ကျန်တစ်ပါးကတော့ "မဟုတ်သေးပါဘူးဘုရား, ဒီလို ရေကို မသောက်ဘဲ နေလိုက်ရင် လမ်းမှာတင် ရေငတ်လို့ ခန္ဓာပြတ်လိမ့်မယ်၊ ဘုရားကို ဖူးခွင့်ရလိုက်မှာ မဟုတ်ဘူး၊ ဘုရားကို ဖူးရတယ် ဆိုတဲ့ အခွင့်အရေးဟာ နည်းတာမှ မဟုတ်ဘဲ၊ တစ်ကြိမ်တစ်ခါ ဖူးရရုံနှင့် ကုသိုလ်တွေဟာ အများကြီး ရနိုင်တယ်"ဆိုပြီး ရေကို သောက်လိုက်တယ်၊ ကဲ... ဘယ်သူ့ ဆုံးဖြတ်ချက်ဟာ အမှန်ဖြစ်မလဲ။?



အသက်ကို စွန့်သော်လည်း စွန့်လွှတ်ရာ၏၊ ဝိနည်းပညတ်တော်ကိုမူ ချိုးဖောက်ခြင်း မပြုသင့်၊
ဝိနည်းတော်အရ ရဟန်းတော်များ ရေကို စစ်၍ သောက်ကြရခြင်း

## ဒါမှ ငါ့သားတော်ကြီးတဲ့

အဲဒီနောက် ခရီးဆက်လို့လာကြတဲ့အခါ ရေမသောက်တဲ့ ရဟန်းဟာ လမ်းမှာပဲ အားပြတ်လို့ မတ်တပ်က လဲ၍ သေပွဲဝင်ရရှာပါတယ်၊ သနားစရာပဲ၊ ရေသောက်တဲ့ရဟန်းကတော့ ဘုရားထံမှောက်သို့ ဆိုက်ဆိုက်မြိုက်မြိုက် ရောက်အောင်ပဲ လာခဲ့နိုင်တယ်။

ဒါနဲ့ မြတ်စွာဘုရားအား အကျိုးအကြောင်းကို စုံလင်အောင် လျှောက်တဲ့အခါ မြတ်စွာဘုရားက ဝိနည်းကျင့်ဝတ်အတိုင်း တစ်သဝေမတိမ်း လေးစားလိုက်နာတဲ့, လမ်းမှာ ပျံလွန်တော်မူရစ်ခဲ့တဲ့ ရဟန်းကို ချီးမွမ်းတော်မူပါတယ်၊ "ဒါမှ ငါ့သားတော်ကြီး အစစ်" တဲ့၊ ... ဝိနည်းကို ချိုးဖောက်၍ ဘုရား

ထံမှောက်သို့ အရောက်လာခဲ့တဲ့ ရဟန်းကို ချီးမွမ်းတော် မမူဘူး၊ ကဲ-တွေ့ပြီလား။"

ဤသို့အားဖြင့် ဆရာတော် အရှင်ဇနကာဘိဝံသက ပုံသက်သေကလေးများ ပြ၍ ဩဝါဒပေးတော်မူလေ့ ရှိပါသည်၊ ထို့ကြောင့် ဆရာတော့် ဩဝါဒသည် ခြောက်သွေ့သွေ့မနေဘဲ အမြဲတမ်း စိုပြည်လျက် ရှိနေသည်၊ စွဲ၍လည်း ကျန်ရစ်သည်၊ ပုံပြင်နှင့် ကပ်၍ထားသဖြင့် မှတ်သားရလည်း လွယ်သည်။

ဤသို့လျှင် တပည့်တို့အား ဝိနည်းကို လေးစားစေချင်၍၊ ဘုရားစကားကို ရှိသေစေလို၍ နည်းမျိုးစုံဖြင့် ညွှန်ပြတော်မူနေခြင်း ဖြစ်ပေသည်။

## ဉာတိပဝါရိတမှ တောင်းကောင်း

ဝိနည်းထုံးစံအရ အလိုရှိသော ပစ္စည်းကို ဆွေမျိုးဉာတိ မဟုတ်သူက "အလိုရှိရာ တောင်းပါ" ဟု ဖိတ်မန်ထားခြင်း မပြုသူတို့အထံမှာ (ဆွမ်းရပ်သလို ရပ်ခြင်းမှတစ်ပါး) ကိုယ်တိုင်လည်း မတောင်းကောင်း, သူများကိုလည်း အတောင်းမခိုင်းကောင်း။ ဆွေမျိုး မတော်သော်လည်း "အလိုရှိရာ တောင်းတော်မူပါ"လို့ ဖိတ်မန်ထားလျှင်လည်း ပဝါရိတပုဂ္ဂိုလ် ဖြစ်သွားသဖြင့် တောင်းကောင်း၏၊... ထို့ကြောင့် ကပ္ပိယကာရကကို စီစဉ်သည့်နေရာ တွင် ဆရာတော်က ဖြစ်နိုင်သမျှ (မဖိတ်မိသော်မှ) တောင်းကောင်းသော ပုဂ္ဂိုလ်ဖြစ်အောင် ဆွေမျိုးတော်စပ်သည်ကို ရွေး၍ စီစဉ်နေခြင်းဖြစ်ပေသည်။

ဆွေမျိုး မတော်သော ကပ္ပိယကာရကဆိုလျှင်ကား "အလိုရှိရာ အပ်စပ်သောပစ္စည်းကို တောင်းတော်မူပါ"လို့ ဖိတ်မန်ထားမှသာ ပဝါရိတပုဂ္ဂိုလ်ဖြစ်သွား၍ တောင်းကောင်းသည်၊ မဖိတ်မန်လျှင် မတောင်းကောင်း၊ ကပ္ပိယက မိမိကိုယ်ပိုင်ပစ္စည်းကို လှူလို၍ ဖိတ်သည်ကား တစ်ကြိမ်ဖိတ်ထားလျှင် ကိစ္စပြီး၏၊ အခြားပုဂ္ဂိုလ်များက နဝကမ္မဝတ္ထု လာရောက် အပ်နှံလှူကြရာ၌မူ လှူလာတိုင်း လှူလာတိုင်း လှူလာသော နဝကမ္မ ပမာဏအရ ဖိတ်မန်ရမည်သာ၊ မဖိတ်မန်လျှင် ထိုမဖိတ်သော နဝကမ္မအတွက် မတောင်းကောင်း၊ ဤအကြောင်းကြောင့်ပင် ဆရာတော်ဘုရားကိုယ်တော်တိုင် ကပ္ပိယအနားသို့ သွား၍ သွား၍ ရပ်ရသည်ကို မြင်ကြရဖူး၏။

## ဆရာတော်နှင့်ဒကာကျော်

ဒကာကြီးကျော်သည် အသက် ၈၀ တွင်းသို့ ချဉ်းနင်းဝင်ရောက်လာသောအခါ ဇရာ၏ ဖိစီးမှုဒဏ်ကြောင့်လည်းကောင်း, ခေါင်းစီးအမျိုးမျိုးဖြင့် ကိုင်နေရသော ငွေကြေးပမာဏက များနေသောကြောင့်လည်းကောင်း, မကြာခဏ လာရောက် လှူကြသော အနာမာသဝတ္ထုကို မှတ်ရသားရ စာရင်းသွင်းရလွန်း၍လည်းကောင်း တစ်ခါတလေ သတိမေ့နေဟန်တူပါသည်။

ဆရာတော်အား "မည်မျှ မည်မျှ အပ်စပ်သော ပစ္စည်းကို အလိုရှိတဲ့အခါ တောင်းတော်မူပါ"ဟု ခါတိုင်းလို သွားရောက် မလျှောက်ထားမိ, လှူသွားသော ဒါယကာ ဒါယိကာမတို့ကား ဆရာတော်အား လျှောက်ထားသွားကြသဖြင့် ဆရာတော်က သတိရနေသည်။

ထို့ကြောင့် တစ်ရက်နှစ်ရက်လွန်အောင် လျှောက်ချိန်တန်၍ မလျှောက်လာသောအခါ ဆရာတော်က ဒကာကြီးကျော် နေသော ဇရပ်ကလေး အနီးသို့ သွားကာ ဟိုအကြောင်း ဒီအကြောင်းပြောရင် ရပ်တတ်၏၊ "ဖိတ်မလား"ဟု စောင့်စား၏၊ သို့သော် ဒကာကြီးကျော်က မရိပ်မိ၊ "ဘာများ အမိန့်ရှိမလဲ" ဟုသာ စိတ်စော၍ ဆရာတော့်အနားသွားကာ မတ်တပ်ရပ်ရင်း လက်ခံစကားပြောလိုက်သည်၊ နောက်တစ်နေ့လည်း လာပြန်၏၊ ဒကာကြီးကျော်ကလည်း မရိပ်မိသေး၊ ဟိုအကြောင်း ဒီအကြောင်း ပြောရင်း အချိန်ကုန်ပြန်သည်၊ နောက်တစ်ရက် ဆက်၍ ကြွလာသောအခါမှ ဒကာကြီးကျော်က သတိရပြီးလျှင် တစ်နေ့တုန်းက လှူသွားသော နဝကမ္မအတွက် အရေးတကြီး ဖိတ်မန်ရတော့၏၊ ဤသို့လျှင် အလွန်ရင်းနှီးသော ကပ္ပိယကြီးဖြစ်လင့်ကစား ဆရာတော်က ဖိတ်ပါဟု မပြောကြားဘဲ ဝိနည်းလမ်းကြောင်းအားဖြင့်သာ ကျင့်သုံးသွားတော်မူတတ်ပါသည်။

## ပုဂ္ဂိုလ်လေးမျိုး သိဖို့ကောင်း

ဆွေမျိုးတော်စပ်သူကို (ဖြစ်နိုင်လျှင်) ကပ္ပိယကာရကဖြစ်အောင် ရွေးချယ်ရခြင်းမှာ "အချိန်မရွေး တောင်းကောင်းအောင်လို့"ဟု ဆရာတော်က အကြောင်းပြခဲ့၏၊ တောင်းကောင်းသောပုဂ္ဂိုလ်, ပေးကောင်းသောပုဂ္ဂိုလ်တို့ကိုလည်း သိထားသင့်ကြောင်းကို ဆရာတော်က အောက်ပါအတိုင်း ဆက်လက် အမိန့်ရှိတော်မူသည်။

"ဒီနေရာမှာကွဲ့, ရဟန်း သာမဏေတို့က... တောင်းကောင်းတဲ့ပုဂ္ဂိုလ်ရွေးချယ်တာနှင့်ပတ်သက်လို့ ပေးကောင်းတဲ့ပုဂ္ဂိုလ် စသည်တို့ကိုလဲ ဗဟုသုတအဖြစ် သိထားသင့်တာပဲ၊ အဲဒီ ပုဂ္ဂိုလ်တွေက လေးမျိုးရှိတယ်၊ ဘယ်လိုလဲဆိုတော့...

၁။ တောင်းသာတောင်းကောင်း, မပေးကောင်း၊

၂။ ပေးသာပေးကောင်း, မတောင်းကောင်း၊

၃။ တောင်းလဲတောင်းကောင်း, ပေးလဲပေးကောင်း၊

၄။ မတောင်းလဲ မတောင်းကောင်း, မပေးလဲ မပေးကောင်းလို့ ပုဂ္ဂိုလ် လေးမျိုး ရှိတယ်၊ မှတ်ဖို့ကောင်းပါတယ်၊ ဝိနည်းကို လေးစားချင်တဲ့ ပုဂ္ဂိုလ်တွေဟာ မှတ်လဲ မှတ်ရမှာပဲ၊ အဲဒီမှာ...

၁။ "တပည့်တော်ထံ မည်သည့်ပစ္စည်းကို အလိုရှိတဲ့အခါ တောင်းတော်မူပါ (သို့မဟုတ်) ပစ္စည်းလေးပါးကို အလိုရှိတဲ့အခါ တောင်းတော်မူပါလို့ ဖိတ်ထားတဲ့သူမျိုးကို "ပဝါရိတပုဂ္ဂိုလ်"လို့ ခေါ်တယ်၊ အဲဒီ ပဝါရိတပုဂ္ဂိုလ်နှင့် ဆွေခုနစ်ဆက်တော်စပ်၍ရသော ဉာတိတို့အထံ၌ တောင်းသာတောင်းကောင်း၏၊ မိမိပိုင် ပစ္စည်းကို မပေးကောင်း၊ မှတ်ထားကြ။ (ဆွေခုနစ်ဆက်ထဲမှာ မိဘကို ချန်ထား, နောက်မှာလာလိမ့်မည်။)

၂။ ခိုကိုးရာမဲ့လို့ ဆင်းရဲနေတဲ့သူတွေ (သို့မဟုတ်) သူတောင်းစားတွေ, စစ်ရှုံးလို့ ကျောင်းသို့ ပြေးဝင်လာတဲ့ အစိုးရအမှုထမ်းသားတွေ, ရိက္ခာမပါတဲ့ ခရီးသွားဧည့်သည်တွေ၊ အဲလို ပုဂ္ဂိုလ်မျိုးတွေကို ပေးသာပေးကောင်းတယ်၊ မတောင်းကောင်းဘူး။

၃။ မိဘတွေကျတော့ တောင်းလဲ တောင်းကောင်းတယ်၊ ပေးလဲ ပေးကောင်းတယ်။

၄။ ဆွေမျိုးဉာတိလဲ မဟုတ်, ပဝါရိတပုဂ္ဂိုလ်လဲ မဟုတ်တဲ့သူတွေကိုတော့ တောင်းလဲ မတောင်းကောင်းဘူး, ပေးလဲ မပေးကောင်းဘူး၊ သူတို့ပိုင်ဆိုင်ပြီးဖြစ်တဲ့ သောက်ရေကလေးကိုသော်မျှ မတောင်းကောင်းဘူး၊ အကယ်၍ အလိုရှိလျှင် (စကားမပြောဘဲ) ဆွမ်းရပ်သလို ရပ်၍ဖြစ်စေ, မိမိမှာရှိတဲ့ပစ္စည်းနှင့်လူဝတ်ကြောင်တစ်ယောက်ကို အလဲခိုင်း၍ဖြစ်စေ၊ အဲဒီနည်းနှင့်သာ ရယူနိုင်တယ်၊ အလွန်မှတ်သားဖို့ ကောင်းတယ်။

## သံသယကြီးလွန်းတဲ့ဆရာတော်

ဒီလို တောင်းရမ်းမှုကိစ္စနဲ့စပ်ပြီး ရွှေကျင်ဂိုဏ်းကြီးကို စတင်တည်ထောင်တော်မူတဲ့ ပထမရွှေကျင်သာသနာပိုင် ဆရာတော်ကြီးကဆိုရင် သိပ်ပြီး သံသယကြီးတော်မူသတဲ့၊ နံပါတ်(၁)အရ ပဝါရိတပုဂ္ဂိုလ်တွေနှင့် ဉာတိ ပုဂ္ဂိုလ်တွေထံကိုတောင် တောင်းချင်ဟန် မတူဘူး၊ နံပါတ် (၃)အရ တောင်းလို့လဲ ရ, ပေးလို့လဲ ရတဲ့ အမိ အဖတို့ထံမှာသာ စိတ်ချလက်ချ တောင်းချင်ပုံရတယ်။

ဒါတောင် အမိနဲ့ အဘမှာ အမိက "အမေ" ဖြစ်တာ သေချာတယ်၊ အဘဆိုတာက မပြောနိုင်ဘူးလို့ စဉ်းစားမိသတဲ့၊ အဲဒီလို စဉ်းစားပြီး တစ်နေ့မှာတော့ သူ့ခမည်းတော်ကြီးကို မေးသတဲ့။

"ဒကာကြီး...ဦးပဥ္စင်းဟာ ဒကာကြီးရဲ့ သား အစစ်ပဲလား?" ဆိုတော့ ဒကာကြီးက စိတ်ဆိုး လွန်းလို့ "ဒီကိစ္စ ကိုယ်တော့်အမေကို သွားမေး"လို့ လျှောက်တော့သတဲ့၊ ဆရာတော်က အဖေစစ်စစ် ထံမှာသာ တောင်းချင်တာကိုး၊ ဒီတုန်းက ဆရာ တော်ကလဲ ခပ်ငယ်ငယ်ပဲ ရှိပါသေးသတဲ့။

## မအေပေးဘုန်းကြီး

တောရွာတစ်ရွာမှာ ကျောင်းထိုင်တဲ့ ဘုန်းကြီး တစ်ပါးကတော့ အဲလို မဟုတ်ပြန်ဘူးတဲ့၊ သူက တောင်းကောင်းတာထက် ပေးကောင်းတာကို ကြည့်တာ၊ နံပါတ်(၃)အရ "အမိ အဖတွေဆိုတာ တောင်းလဲ တောင်းကောင်းတယ်, ပေးလဲ ပေး ကောင်းတယ်"ဆိုပြီး သူ့ကျောင်းမှာ ရှိသမျှ အကုန် ချပေးတာတဲ့။

အမှန်က ဆင်းရဲနေတဲ့ မိဘတွေကို ဆိုလိုတာ နော်၊ သတိပြုပါ၊ မိဘတွေက မဆင်းရဲဘဲနဲ့ အကုန် ချပေးနေပြန်တော့လဲ လှူရတဲ့ လူတွေ သဒ္ဓါတရား ပျက်နိုင်တယ်၊ စေတနာတွန့်ကုန်နိုင်တယ်၊ အခု တော့ သူက အကုန်ချပေးနေတာတဲ့။

သူ့ကျောင်းမှာ ရှိသမျှ ထမင်းခြောက်ရောင်းလို့ ရတာရော, အုန်းသီးတွေ ဆွတ်ရောင်းလို့ ရတာ ရော, ဟိုက ဒီက လှူလို့ ရတာရော အကုန်လုံး အမေ့အိမ်ကို ပို့၊ အမေ့ကိုချည်း ပေးတာတဲ့၊ အဲလို နှင့် ကြာတော့ ဘေးက ပြောလာကြသတဲ့၊ "ဒီ ဘုန်းကြီးက မအေပေးဘုန်းကြီး, အမေပေးဘုန်းကြီး ပဲ"လို့၊ "သူကမှ တော်သေး, တချို့ဘုန်းကြီးကျတော့ အစ်မကိုလဲ ပေးတတ်တယ်, နှမကိုလဲ ပေးတတ် တယ်တဲ့၊ အဲဒါကျတော့ ဘယ်လို ခေါ်မလဲ"၊ ဤသို့ စသည်ဖြင့် (တောင်းကောင်း မတောင်းကောင်း) ဝိနည်းကြောင်းနှင့်ပတ်သက်ပြီး ဆရာတော်က ခပ် ရွှင်ရွှင် ဩဝါဒရှည်ကြီးကို ပေးတော်မူဖူး၏။

# သဘောကြီးငါးစင်း

## ရည်ရွယ်ရင်းက ဘယ်လိုပါလိမ့်

ဆရာတော်သည် မိမိ၏အမှတ်တံဆိပ်လက္ခဏာ အနေဖြင့် နေ့သင့်နံလိုက် "ခြင်္သေ့ရုပ်ပုံကြီး"ယူထား သည်ကို ဖော်ပြခဲ့ပြီး ဖြစ်၏၊ ဤသို့ ယူထားသော် လည်း ဤအကြောင်းအရာနှင့် ပတ်သက်၍ မည်သူ့ အားမျှ ပြောကြားခြင်း, ရေးသားခြင်း, ရှင်းလင်း တင်ပြခြင်း မရှိခဲ့သလို အခြားအမှတ်အသား တစ်ခု လည်း ရှိသေး၏၊ ယင်းကား မဟာဂန္ဓာရုံကျောင်း တိုက်၏ အရှေ့ဘက်အုတ်တံတိုင်းနှင့် ကပ်လျက် တောင်သမန်အင်းဘက်က ရေစပ်တွင် သင်္ဘောကြီး ငါးစင်းစီတန်းလျက် တည်ထားခြင်းပင် ဖြစ်သည်၊ ဤ၌လည်း သူ၏ ရည်ရွယ်ချက်, သူ၏ စိတ်ထား ကို မည်သူတစ်ဦးတစ်ယောက်အားမျှ ရှေးက ရှင်းပြခြင်း မပြုခဲ့ပေ။

သွား၍ မေးမြန်းလျှောက်ထားပါလျှင်ကား "မိုး အခါတွင် အင်းရေတွင် တိုးဝှေ့သဖြင့် အုတ်တံတိုင်း မကျိုးအောင် မပြိုအောင် အကာအကွယ်အဖြစ် တည်ထားသည်"ဟုသာ ဖြေကြားမည်ဟု ထင်ရ သည်၊ အမှန်စင်စစ်ကား... ထိုရည်ရွယ်ချက်မျှ လောက်သာ ကမည် မဟုတ်သေးပါ၊ ရည်ရွယ်ချက် တွေ များစွာ ရှိဟန်တူပါသည်။

ပြုလုပ်ပုံမှာ...လှေ (သမ္ဗန်) ပုံကြီးများသဖွယ် ဦးချွန်း ပဲ့ချွန်းပုံများ ဖြစ်၏၊ တစ်ခု တစ်ခုလျှင် အလျားပေ ၄၀, အနံ ၁၅ ပေခန့်, အမြင့် ၁၀ ပေ ခန့်မျှ အုတ်အင်္ဂတေတို့ဖြင့် အခိုင်အမာ ရေစပ်တွင် တည်ဆောက်ထားပါသည်၊ ထို့နောက် ထိုလှေသမ္ဗန် ကြီးများပေါ်၌ ထိုပုံအတိုင်း (ဦးချွန်း ပဲ့ချွန်းအလိုက်) သင်္ဘောအထပ်ထပ်အနေမျိုး ထပ်ဆင့်လိုက်ပြန်ပါ သည်၊ နှစ်ထပ်သင်္ဘောပုံမျိုး ဖြစ်သွား၏၊ သွပ်မိုး,

ပျဉ်ကာ ပျဉ်ခင်း သပ်သပ်ရပ်ရပ် မိုးလုံ လေလုံ ဖြစ်သည်၊ "သင်္ဘောကျောင်းများ"ဟု ခေါ်ကြ၏၊ ခပ်လှမ်းလှမ်းမှ နေ၍ ကြည့်လျှင် သင်္ဘောကြီး ငါးစင်း ရေစပ်တွင် ထွက်ခွာတော့မည့် ဟန်ပြင်နေ သလို ထင်ရတော့သည်၊ မည်သည့် ရည်ရွယ်ချက်ပေနည်း?။

---

**မှတ်ချက်။ ။ တစ်ခါတွင် ဒကာကြီးကျော်က ဆရာတော်အား လျှောက်ဖူးသည်၊ "ဆရာတော်က အလျင် ပျံတော်မူပြီး တပည့်တော် ကျန်နေရစ်လို့ အကျိုးမရှိပါဘူး၊ တပည့်တော်က အလျင်သေပြီး ဆရာတော် ကျန်ရစ်မှ သာသနာမှာ အကျိုးများမှာပါ"... ဒီတော့ ဆရာတော်က "မဟုတ်ဘူး ဒကာကြီး၊ ဒကာကြီးအလျင် ဘုန်းကြီးက သေမှသာ ဘုန်းကြီးပြုနေတဲ့ သာသနာကို ဘုန်းကြီးအားရပြီး မိမိဘဝကို ကျေကျေနပ်နပ်စွန့်လွှတ်နိုင်မှာ၊ ဒကာကြီး မရှိလို့ ကပ္ပိယကောင်းမရတဲ့အတွက် မအပ်မရာတွေနှင့် ရှေ့ဆက်လက် ခရီးသွားရမယ်ဆိုရင် ဘုန်းကြီး စိတ်ရှင်းမှာ မဟုတ်ဘူး"ဟူ၍ မိန့်ပါသတတ်၊ ယခုကား ဆရာတော်ဆန္ဒ ပြည့်ဝသလို ဖြစ်၍ သွားတော့သည်။**

## ဘဒ္ဒကမ္ဘာမှာ ယာဉ်သာငါးစင်း

ဆရာတော်က မကြာ မကြာ ပြောပြတတ်၏၊ အလုပ်လုပ်တဲ့နေရာမှာ "သဒ္ဓါ ဝီရိယ သတိ သမာဓိ ပညာ" ဤငါးဖြာတို့ကို ဗိုလ်ချုပ်ကြီးများပမာ ဦးစီးနေစေရမည်၊ သို့မှသာ တက်တက်ကြွကြွ လန်းလန်းဆန်းဆန်း ရှိပြီး လုပ်ငန်းများ အောင်မြင်နိုင်မည်ဟု သတိပေးလေ့ ရှိ၏၊ ထို့ကြောင့် သင်္ဘောကြီး ငါးစင်းမှာ ဆိုခဲ့ပြီးသော ဗိုလ်ချုပ်ကြီးငါးဦးကိုပင် အမှတ်အသား ထင်လေသလောဟု တွေးတောမိကြတော့၏၊ စင်စစ်သော်ကား မဟုတ်ပါချေ၊ တစ်နေ့တွင် အဖြေ ပေါ်လာပါတော့သည်၊ ဆရာတော်က ရှင်းပြ၏၊ "ကမ္ဘာသည် သာရကမ္ဘာ, မဏ္ဍကမ္ဘာ, ဝရကမ္ဘာ, သာရမဏ္ဍကမ္ဘာ, ဘဒ္ဒကမ္ဘာ"ဟူ၍ ငါးမျိုး ရှိသည်။ *

ထိုတွင် သာရကမ္ဘာ၌ ဘုရားတစ်ဆူသာ ပွင့်ရိုးဖြစ်၏၊ မဏ္ဍကမ္ဘာ၌ နှစ်ဆူ, ဝရကမ္ဘာ၌ သုံးဆူ, သာရမဏ္ဍကမ္ဘာ၌ လေးဆူ, ဘဒ္ဒကမ္ဘာ၌ငါးဆူပွင့်ရိုး ထုံးစံ ဖြစ်သည်၊ ယခုကမ္ဘာသည် ဘဒ္ဒကမ္ဘာဖြစ်၍ ဘုရားငါးဆူ ပွင့်ရမည်ဖြစ်၏။

ယခု "ကကုသန်, ကောဏာဂုံ, ကဿပ, ဂေါတမ"ဟူ၍ ဘုရားလေးဆူပွင့်သွားပြီးပြီ၊ နောက် အရိမေတ္တေယျဘုရားတစ်ဆူ ကျန်သေး၏၊ ပွင့်ရဦးမည်၊ ထို့ကြောင့် ဤကမ္ဘာသည် ဘုရားအများဆုံး ပွင့်သော ဘဒ္ဒကမ္ဘာ ဖြစ်၏၊

ဤဘဒ္ဒကမ္ဘာ၌ ပွင့်သောဘုရားငါးဆူကို ရည်ရွယ်၍ သင်္ဘောကြီးငါးစင်း တည်ထားပြီး ပူဇော်သည်၊ အဂ္ဂမဟာပဏ္ဍိတ်ဘွဲ့အတွက် ပထမဦးဆုံးနှစ်ရရှိသော နဝကမ္မဝတ္ထုများဖြင့် တည်ထားပူဇော်သည်ဟု သိရ၏၊ သင်္ဘောကြီးများသည် လူများစုကို သယ်ဆောင်၍ ကမ်းတစ်ဖက်သို့ သွားနိုင်သလို ဘုရား ငါးဆူတို့လည်း သတ္တဝါ ဝေနေယျတို့ကို သယ်ဆောင်၍ ကမ်းတစ်ဖက် နိဗ္ဗာန်တိုင်အောင် ပို့ဆောင်နိုင်သောကြောင့် သင်္ဘောကြီးများပမာ တင်စားထားခြင်း ဖြစ်သည်၊ ဤသို့ အမိန့်ရှိတော်မူ၏၊ ယခုမှ အဖြေမှန် ပေါ်လေတော့သည်။

## စံပယ်လေးရဲ့ တစ်ငုံကျန်ပါသေး

ဤသို့ ဤသို့လျှင် ဥပစာတင်၍ ဘုရားရှင်ကိုယ်တော်မြတ်ကြီးတို့ကို ဆရာတော်က ပူဇော်ကြည်ညိုသောအခါ မိမိတို့ကလည်း မိမိတို့ ငယ်စဉ်က ရခဲ့ဖူးသော လေးချိုး အငယ်စားကလေးတစ်ခုကို သတိရမိလာကြ၏။

သဘောသဘာဝချင်း တူကြသည်၊ ကိုယ့်အမြင်နှင့်ကိုယ် ဥပစာတင်ခြင်းသာ ခြားနား၏၊ အဓိပ္ပာယ်အားဖြင့် မပြားပါ။

ဤနေရာတွင် ဤအကြောင်းအရာနှင့် စပ်၍ ဟပ်မိသဖြင့် တင်ပြလိုပါသည်။

---

* ဗုဒ္ဓဝံသအဋ္ဌကထာ–၂၂၇။

**စံပယ်တဲ့ လေးရုံ၊**
**မလေးငယ် မပန်ထိုက်လို့ ပန်းပြတ်နိုက်ကြို၊**
**အပွင့်ရယ်ကုန်၊ တစ်ငုံတော့ ကျန်ပါသေး၊**
**ပန်ချင်သူ နွဲ့နွဲ့နှောင်းငယ်တို့၊**
**ကေသာကို ပျော့ပျော့ပျောင်းအောင်၊**
**ခေါင်းဖြီးခဲ့လေး။**

အဓိပ္ပာယ်မှာ ဤဘဒ္ဒကမ္ဘာ၌ စံပယ်ပန်းရုံကြီး ငါးရုံပွင့်ရမည် ဖြစ်၏၊ ထိုတွင် လေးရုံက ပွင့်သွားပြီးပြီ၊ (ဆိုလိုသည်မှာ ဘုရားငါးဆူပွင့်ရမည်ဖြစ်၏၊ ထိုတွင် လေးဆူ ပွင့်သွားပြီးပြီ။)

စံပယ်ရုံကြီး လေးရုံ ပွင့်ကုန်ပြီဖြစ်သော်လည်း မလေးငယ်နှင့်တူသော ဝေနေယျ သတ္တဝါတို့မှာ မပန်ထိုက်၍ ယခုအခါ ပန်းပြတ်ခိုက်နှင့် ကြုံနေကြရသည်၊ (မဖူးထိုက်၍ ဘုရားရှင်ကိုယ်တော်မြတ်ကြီးများ ပရိနိဗ္ဗာန် စံခိုက်နှင့် ကြုံနေကြရသည်ဟူလို၊) ယခုလောလောဆယ် ပန်ဖို့ရာ အပွင့်တွေ ကုန်နေပြီဖြစ်သော်လည်း မျှော်လင့်ချက်ကား ရှိပါသေး၏၊ နောက်စံပယ်ရုံကြီး တစ်ရုံက ပွင့်ဖို့ရာ အငုံကြီးတစ်ခု ကျန်ပါသေးသည်၊ (အရိမေတ္တေယျ ဘုရားတစ်ဆူပွင့်ဖို့ ကျန်ပါသေးသည်ဟု ဆိုလို၏၊) အကယ်၍များ ပန်ဆင်လိုကြပါလျှင် မိမိတို့ရဲ့ ဆံပင် ကေသာကို သေချာအောင် သန့်ရှင်း၍ ညှင်းညှဲ ပျော့ပျောင်းအောင် ခေါင်းဖြီးထားကြပါ။

(အဓိပ္ပာယ်မှာ လာမည့် အရိမေတ္တေယျဘုရားရှင်နှင့် တွေ့နိုင်အောင် ယခုနှယ်က ကြိုတင်၍ ကိုယ်ကျင့်သီလ ဖြူလွှသန့်ရှင်းအောင် ကျင့်သုံးထားကြပါဟု ဆိုလိုသည်၊) ဘုရားငါးဆူကိုပင် ရည်ရွယ်ပြီး သီကုံးအပ်သောတေးဖြစ်၍ လေးစားဖွယ် မှတ်သားဖွယ်ကောင်းလှသည်။

## ဘုရားက သာစေ့ခေါ်မည့်အလုပ်ဆိုတာ
### အခြေခံသီလ ဖြူလွှနိုင်မာပါမှ

သက်တော် ၇၀ ကျော်လာသောအခါ ဆရာတော်ကြီး၏ ဩဝါဒတို့သည် ပို၍ ရင့်ကျက်လာကြပြန်၏၊ ရှေးက ဩဝါဒပေးရာ၌ သေရေး နေရေးတို့၌ ပြင်ဆင်ထားဖို့ အသက်ရှင်နေစဉ်တွင် သီလလုံခြုံအောင် ကျင့်သုံးဖို့၊ လူဝတ်ကြောင်ဆိုလျှင် ငါးပါးသီလ မြဲနေဖို့၊ သာမဏေဆိုလျှင် ရှင်ကျင့်ဝတ်လာ သိက္ခာပုဒ်တွေ မကျိုးဖို့၊ ရဟန်းဆိုလျှင် အာဇီဝပါရိသုဒ္ဓိသီလ ပါတိမောက္ခသံဝရသီလမှစ၍ ကုဋေကိုးထောင်ကျော်သော သီလတွေအထိ ပြည့်စုံဖို့ရာ မကြာ မကြာ သတိပေးတော်မူသည်၊ "သီလတွေ လုံခြုံနေရင် ဘဝကူး စိတ်ချရတယ်၊ အထက်တန်းတရားထူးတွေကလဲ ဒီအခြေခံအုတ်မြစ်သီလပေါ်မှာ ရပ်တည်ပြီး လှမ်းဆွတ်ရတာပဲ၊ တရားထူးရတယ်ဆိုတာ သီလမပါဘဲနှင့် ဖြစ်ကို မဖြစ်ပါဘူး၊ သမာဓိရဖို့လဲ ဒီသီလရှိမှ ရလွယ်တာပဲ၊ သမာဓိရမှလဲ ပညာဖြစ်တာပဲ။

တစ်ခါတုန်းက ဂျာမဏီသီလရှင်ကြီးတစ်ဦး ရောက်လာဖူးတယ်၊ သူက ကျော်ဆည် ဝေဘူဆရာတော့်ထံမှာ တရားအားထုတ်လာခဲ့တာတဲ့။

ဘုန်းကြီးကို သူကမေးတယ်၊ "ဘိက္ခုနီမများ ကျင့်သုံးသွားတဲ့ သီလတွေ သူသိချင်တယ်၊ လေ့လာချင်ပါတယ်တဲ့၊ ဘယ်လောက်များပါသလဲတဲ့။

"ဘာလုပ်ဖို့လဲ"မေးတော့ "သီလတွေ များများထိန်းထားချင်လို့"တဲ့၊ "သီလတွေ များများထိန်းထားပြီးမှ တရားထိုင်ရတာ ပိုပြီး သမာဓိ ရလွယ်တယ်တဲ့၊ တရားအားထုတ်လို့ ပိုပြီး ကောင်းတယ်"တဲ့။

ဒါ ဟုတ်ရမှာပေါ့ **"ဟောတာဝိပ္ပဋိသာရာယ, သီလံ ပါမောဇ္ဇဟေတု သော"**တဲ့၊ သီလတွေဟာ စိတ်နှလုံး မသာမယာ မဖြစ်ဖို့အကြောင်း, ဝမ်းမြောက်မှုဖြစ်လာပြီး သမာဓိ ပညာတို့ ရဖို့အကြောင်းရင်းတွေပဲ၊ အဲလို သီလာရတော့ သီလဖြည့်ဖို့ စိတ်အားတွေ ပိုပြီး ထက်သန်လာတယ်၊ ဘယ်လောက်အားရစရာ ကောင်းသလဲလို့၊ သီလဟာ အခြေခံပဲ၊ အချက်အချာ အခရာပဲ၊ သီလဖြူလွှခိုင်မာပါမှ လိုရာတက်လှမ်းနိုင်မယ်။"

## ဘာအကျိုးများ ရှိပါသလဲဘုရားတဲ့

"အဲလို သီလအခြေခံကောင်းပြီဆိုရင်တော့ အဲဒီ ပုဂ္ဂိုလ်ဟာ တက်လမ်းတွေ ရှိသွားပြီ၊ အခွင့်အလမ်းတွေ သာသွားပြီ၊ ဘုရားက အဲလိုမှ ကြိုက်တာ၊ သာစုခေါ်မှာ၊ လမ်းစဉ်မှန်မှန်နှင့် လာတာကို ကြိုက်တာ၊ သီလမပါဘဲနှင့် ဖြတ်လမ်းလိုက်တာကတော့ မဟုတ်သေးပါဘူး၊ ဖြစ်လဲ မဖြစ်နိုင်ပါဘူး၊ ဘုရားလက်ထက်တော်က ရဟန်းတွေဟာ သီလအခြေခံပြီးမှ တက်ကြတာပဲ၊ သီလဟာ အလွန် အားကိုးဖို့ ကောင်းတယ်၊ သဒ္ဓါတရားနှင့် လုံ့လ ဝီရိယ ရှိသူတို့ဆိုလျှင် လိုရာခရီးကို တစ်ဖြောင့်တည်း ရောက်အောင်ပို့ပေးလိုက်တဲ့ သူနှင့်လည်း တူတယ်" စသည်ဖြင့် အားရဖွယ်သြဝါဒတွေ ပေးပြီးနောက် ဆက်လက်၍ မိန့်ပြန်သည်၊ "တစ်နေရာတွင် အရှင်အာနန္ဒာက ဘုရားကို မေးလျှောက်လို့ ဘုရားကိုယ်တော်မြတ်က ဖြေထားတာ ရှိတယ်။...*

၁။ "စင်ကြယ်ဖြူလွှတဲ့ **သီလ**တွေဟာ ဘာအကျိုး ရှိပါသလဲဘုရား"။
"**(အဝိပ္ပဋိသာရ)**စိတ်နှလုံး မသာမယာမဖြစ်ရဖို့ အကျိုးရှိတယ် အာနန္ဒာ"။

၂။ "**အဝိပ္ပဋိသာရ** ကရော ဘာအကျိုး ရှိပါသလဲ ဘုရား"။
"**ပါမောဇ္ဇ**ဆိုတဲ့ ပီတိအနုစား ဖြစ်လာရဖို့ အကျိုးရှိတယ်"။

၃။ "**ပါမောဇ္ဇ** ကရော ဘာအကျိုးရှိပါသလဲဘုရား"။
"**ပီတိ**ဆိုတဲ့ နှစ်သက်ဝမ်းမြောက်မှု ဖြစ်လာရဖို့ အကျိုးရှိတယ်"။

၄။ "**ပီတိ** ကရော ဘာအကျိုးရှိပါသလဲဘုရား"။
"**ပဿဒ္ဓိ**လို့ခေါ်တဲ့ ကိုယ်စိတ်နှစ်ပါး ငြိမ်းအေးမှု ဖြစ်လာရဖို့ အကျိုးရှိတယ်"။

၅။ "**ပဿဒ္ဓိ** ကရော ဘာအကျိုးရှိပါသလဲဘုရား"။
"**သုခ**ဆိုတဲ့ ကိုယ်စိတ်နှစ်ပါး ချမ်းသာအေးမြမှု ဖြစ်လာရဖို့ အကျိုးရှိတယ်"။

၆။ "**သုခ** ကရော ဘာအကျိုးရှိပါသလဲဘုရား"။
"**သမာဓိ**လို့ခေါ်တဲ့ တည်ကြည်ငြိမ်သက်မှု ဖြစ်လာရဖို့ အကျိုးရှိတယ်"။

၇။ "**သမာဓိ** ကရော ဘာအကျိုးရှိပါသလဲဘုရား"။
"**ယထာဘူတဉာဏဒဿန**လို့ခေါ်တဲ့ ဟုတ်တိုင်းမှန်စွာ သိမြင်လာရဖို့ အကျိုးရှိတယ်"။

၈။ "**ယထာဘူတဉာဏဒဿန** ကရော ဘာအကျိုး ရှိပါသလဲဘုရား"။
"**နိဗ္ဗိဒါဝိရာဂ**လို့ခေါ်တဲ့ ငြီးငွေ့မှု မတပ်မက်မှု ဖြစ်လာရဖို့ အကျိုးရှိတယ်"။

၉။ "**နိဗ္ဗိဒါဝိရာဂ** ကရော ဘာအကျိုး ရှိပါသလဲ ဘုရား"။
"**ဝိမုတ္တိဉာဏဒဿန**လို့ခေါ်တဲ့ အရဟတ္တမဂ် အရဟတ္တဖိုလ် ဉာဏ်အမြင်ကို ရဖို့ အကျိုးရှိတယ် အာနန္ဒာ"။

"ဤသို့အားဖြင့် စင်ကြယ်ဖြူလွှတဲ့ ကိုယ်ကျင့်သီလတွေဟာ အစဉ်အတိုင်း အဆင့်ဆင့် မြင့်သည်ထက်မြင့်၍ အထွတ်အထိပ်သို့ ရောက်အောင် ပို့ပေးတယ် အာနန္ဒာ"တဲ့။

## သီလပြည့်စုံဖို့ အရေးကြီးတယ်

ဆရာတော်က သီလနှင့် ပတ်သက်၍ ဤမျှလောက်ပင် အားရဖွယ်သာဓကတွေနှင့် ဝေဝေဆာဆာ ထုတ်ဖော် ပြောပြတတ်ပါသည်၊ တစ်ခါတုန်းက မန္တလေးမှ ဒါယကာကြီးတစ်ယောက် ဆရာတော်ထံသို့ ရောက်လာပြီး လေးလေး မြတ်မြတ် ဝတ်ချကန်တော့၍၊ ဆရာတော်က "ဘာကိစ္စလာသလဲ"ဟု မေးရာ "ကိစ္စအထူး မရှိပါဘူးဘုရား၊ ဆရာတော်ကို ကြည်ညိုလွန်းလို့ တမင်သက်သက်လာပြီး ကန်တော့တာပါဘုရား"ဟု လျှောက်လေသည်၊ ထိုအခါ ဆရာတော်က "ဘုန်းကြီးကို ကြည်ညိုနေရုံနှင့်မပြီးသေးဘူး၊ ကိုယ့်သီလကို လုံခြုံနေဖို့၊ အထူးအားဖြင့် ငါးပါးသီလလုံခြုံနေဖို့က ပိုအရေးကြီးတယ်၊ အဲဒါကမှ ကိုယ့်ဘဝ အာမခံချက်ဖြစ်တယ်"ဟူ၍ မိန့်တော်မူလိုက်လေသည်။

---

* ဒသင်္ဂုတ္တရပါဠိ--၂၅၃၊ ကိမတ္ထိယသုတ်၊

ဟုတ်ပါသည်၊ မဟာပရိနိဗ္ဗာနသုတ်၌ ဟော ထားသော အချက်တို့ကို ထောက်ပြ၍ ဆရာတော် က အလွန်အားရစွာ မိန့်တော်မူတတ်ပါသည်။

ထိုသုတ်တော်၌ "ဘုရားဂုဏ်, တရားဂုဏ်, သံဃာဂုဏ် ၌ သက်သက်ဝင်ဝင် ထုံ၍ ငါးပါးသီလ လုံလျှင် စူဠသောတာပန်နှင့်တူ၏၊ အပါယ်မကျနိုင် တော့ပြီ" ဟူသည်ကို အလွန်အားရတော်မူ၏။

ထို့ကြောင့်ပင် လူတိုင်းအား သီလလုံခြုံဖို့ ဟော မိန့်နေခြင်း ဖြစ်ပေသည်။

## သီလပြည့်စုံလျှင် အကုန်ဖြစ်နိုင်

"အဲလို သီလပြည့်စုံကြပြီဆိုလျှင် ဘာမဆို လိုချင်တဲ့ကိစ္စ ပြီးစီး, ဖြစ်ချင်တာဟူသမျှ အကုန် ဖြစ်နိုင်တယ်ဆိုတာ **ဣဇ္ဈတိ ဘိက္ခဝေ သီလဝတော စေတောပဏိဓိ ဝိသုဒ္ဓတ္တာ** စတဲ့ ဘုရားဟော ဒေသနာတော် ရှိတယ်၊ ကိုယ်ကျင့်သီလသာ ဖြူဖြူ လွှလွှ သန့်သန့်ရှင်းရှင်း ဖြစ်ပစေတဲ့၊ ကြံစည်သမျှ အောင်, ဖြစ်ချင်သမျှ အကုန်ဖြစ်သည်လို့ ဟော ထားတာ ရှိတယ်၊ ဒါပေမယ့် လမ်းမလွဲသင့်ဘူး၊ လမ်းမှားကို မသွားသင့်ဘူး၊ သွားရမယ့်လမ်းက သီလပြီးရင် ဘာဝနာပဲ။

သံသရာထဲမှာ "ဒါန, သီလ, ဘာဝနာ"လို့ မဖြစ် မနေ လုပ်ရမယ့် အလုပ်သုံးခု၊ အဲဒီထဲမှာ ဒါနဟာ သံသရာတစ်လျှောက် မျက်နှာမငယ်ရအောင် တတ်နိုင်တယ်၊ ချမ်းချမ်းသာသာ ပြည့်ပြည့်စုံစုံ နေထိုင်စားသောက်ကြရတယ်ဆိုတာ ဒါနရဲ့အစွမ်း၊ ဒါနရဲ့ လက်ချက်ပဲ၊ ဒါပေမယ့် ဘဝကူးကောင်းဖို့ သူက အာမမခံနိုင်ဘူး၊ သီလကျမှပဲ အာမခံနိုင် တယ်၊ ဒါကြောင့် ဒါနသာမက သီလလည်း ပါရ သေးတယ်။

သီလတွင် ရပ်ထားရမလားဆိုတော့ မဟုတ် သေးဘူး၊ရှေ့ဆက်သွားရဦးမယ်၊ ဘာဝနာထိအောင် သွားရဦးမယ်၊ မသွားရင် စားနပ်ရိက္ခာတွေ အပြည့် အစုံ အလုံအလောက် စုထားပြီးကာမှ ခရီးမသွား နိုင်တော့ဘဲ နေတဲ့သူလို ဖြစ်နေမယ်၊ လိုရာခရီးကို ရောက်နိုင်ပါလျက် ရောက်အောင် မသွားတဲ့သူလို ဖြစ်နေမယ်၊ ဒါကြောင့် ဘာဝနာထိအောင် သွားရ မယ်၊ ဒီအခါကျမှ ဘုရားကိုယ်တော်မြတ် အကြိုက် ဆုံး အလုပ်ဟာ ဘာဝနာအလုပ်ပဲ၊ ဘာဝနာကို လုပ်မှ ဒုက္ခပြတ်မှာ၊ ဘာဝနာဆိုတာကလဲ "သမထ ဘာဝနာ, ဝိပဿနာဘာဝနာ"လို့ နှစ်မျိုး ရှိပြန် တယ်၊ တောမျောက်ကလေးပမာ မငြိမ်လှုပ်လှုက် ယောက်ယက်ခတ်နေတဲ့ စိတ်ကို ငြိမ်သက် တည် ကြည်အောင် အားထုတ်ရတဲ့ သမာဓိအလုပ်ကို "သမထဘာဝနာ"လို့ ခေါ်ရတယ်။

ရုပ်တရားနှင့်(စိတ်, စေတသိက်များ)နာမ်တရား တို့ကို သင်္ခါရလို့ ခေါ်တယ်၊ အဲဒီ ရုပ်နာမ်သင်္ခါရ တို့ကို အနိစ္စ, ဒုက္ခ, အနတ္တလို့ ရှုနေရတဲ့ အလုပ်ကို တော့ "ဝိပဿနာဘာဝနာ"လို့ ခေါ်ရတယ်၊ ဒီ အလုပ်ဟာ အဆင့်အတန်း အမြင့်ဆုံးပဲ၊ ဘုရား အကြိုက်ဆုံးပေါ့၊ ဒါကြောင့် မသေမီ အခွင့်ကောင်း ရခိုက်မှာ အားစိုက်ကြရမယ်, ကြိုးစားကြရမယ်။"

ဤသို့လျှင် တစ်စဉ်တစ်တန်းကြီး ရှည်လျားစွာ တစ်ခါက ဩဝါဒပေးပါသည်၊ ရှေးတုန်းက ဩဝါဒ များနှင့် ယှဉ်ကြည့်လျှင် ယခုနောက်ပိုင်း ဩဝါဒ များသည် ပိုမို မြင့်မားလာကြသည်ဟု ဆိုရပါမည်။

**သီလစွမ်းရည်**

**ရဟန်းကျင့်ဝတ်, တစ်ပါးချွတ်က,**
**လူနတ်မကြိုက်, ကဲ့ရဲ့ထိုက်၏၊**
**မော်မော်မန်းမန်း, ကြမ်းဆန်းဘဲ,**
**ရဟန်းကျင့်ဝတ်, တစ်ပါးတတ်က,**
**လူနတ်တကာ, ပူဇော်ရာသား၊**
**နုသည်ဥဏ, သုတမရှိ,**
**သီလရှိက, သီလအတွက်,**
**နှစ်သက်ကုန်ကြ, ချီးမွမ်းရ၏၊**
**သီလမရှိ, သုတရှိသော်,**
**တတ်သိချည်းနီး, ကျိုးမပြီးဟု,**
**မချီးမွမ်းကြ, ကဲ့ရဲ့ရ၏၊**
**သုတသီလ, စွယ်စုံလှမှု, ထိုသသူကို,**
**နတ်လူကောင်းချီး, အံ့မပြီးဘဲ,**
**မငြီးရွံမြှော်, ရှိပူဇော်၍,**
**ကော်ရော်ဦးခိုက်, ချီးမွမ်းထိုက်ရှင်။**

(မယဒေဝမှ)

## ကျောက်ဖြုန်းကလေးတွေနဲ့သာ ကျေနပ်နေကြတယ် ရတနာတောင်ကြီးတွေနှင့် တွေ့နေရပါလျက်

ဆရာတော်က မကြာ မကြာ အမိန့်ရှိသည်၊ "ယခု လူတွေက ရတနာတောင်တန်းကြီးတွေနှင့် တွေ့ကြတာပဲ၊ ဒါပေမယ့် အဖိုးတန်တဲ့ ကျောက်မျက်ရတနာတွေကို မကောက်မယူကြဘူး၊ အပြင်ဘက်မှာ လွယ်လွယ်ရတဲ့ ကျောက်ဖြုန်းကလေးတွေ၊ ကျောက်အညှာစားလေးတွေလောက်သာ ကောက်ယူနေကြသလိုပဲ၊ မြေကြီးထဲ နည်းနည်းလှန်လိုက်ရင် သိန်းနှင့် သန်းနှင့် ကုဋေနှင့် ချီပြီးတန်တဲ့ ကျောက်ကြီးတွေ ရှိတယ်၊ များးစွာပဲ ရှိတယ်၊ တချို့ကျောက်ကြီးတွေက အဖိုးတောင် မဖြတ်နိုင်ဘူး၊ ဒါကို အပင်ပန်းခံရမှာမို့ မတူးမဆွ မလှန်ကြဘူး။

အဲဒီ ဥပမာအတိုင်းပဲ၊... အခုတွေ့နေရတဲ့ ဘုရားသာသနာတော်ကြီးဟာ ရတနာတောင်ကြီးပဲ၊ ရတနာတွေ အမျိုးမျိုး၊ အဖိုးတန်တွေ အများကြီး ရှိတယ်၊ ယူလို့ မကုန်နိုင်ပါဘူး၊ ဒါပေမယ့် အတွင်းထဲ လိုက်တူးမှ၊ အပင်ပန်းခံ အားထုတ်မှ ရနိုင်မှာ။

ဒါလောက် အခြေအနေတွေ ကောင်းနေပါလျက် အသေးစား ကောင်းမှုကလေးတွေ၊ အညှာစား ဒါနအမှုကလေးတွေလောက်သာ ပြုပြီး လူ့စည်းစိမ် နတ်စည်းစိမ် ဗြဟ္မာစည်းစိမ်မျှလောက်သာ တောင့်တ ရယူနေကြတယ်၊ ဒါဟာ ကျောက်ဖြုန်းကလေးတွေလောက်နှင့် ကျေနပ်နေကြခြင်းပဲ။

အမှန်က ဒီ့ထက် နည်းနည်း အပင်ပန်းခံပြီး သီလတွေကို ဖြည့်ကျင့်ရမယ်၊ ဘုရားတစ်ဆူတစ်ဆူ ပွင့်ပေါ်လာမှသာ သိနိုင်ရတဲ့ အာဇီဝပါရိသုဒ္ဓိသီလတို့၊ ပါတိမောက္ခသံဝရသီလတို့၊ ကုဋေကိုးထောင်ကျော်သော သီလတို့ ဒါတွေကို ဖြည့်ကျင့်လိုက်မယ်၊ ဖြည့်ကျင့်ပြီးတော့ ဘာဝနာကိုပါ အားထုတ်လိုက်မယ်ဆိုရင် အင်မတန် အင်မတန် အဖိုးတန်တဲ့ နိဗ္ဗာန်တည်းဟူသော ကျောက်မျက်ရတနာကြီးတွေကို ရနိုင်တဲ့ အခွင့်အလန်းရှိတာပဲ။

ဒါပေမယ့် အပင်ပန်း မခံချင်ကြတော့ ကျောက်ဖြုန်းကလေးတွေနှင့်သာ ကျေနပ်နေကြတော့တာပဲ"ဟူ၍ မကြာ မကြာ မိန့်တတ်ပါလေသည်။

## ဖရဏာပီတိတို့ဖြင့် တအိအိကျေနပ်ရခြင်း မျှော်မှန်းလျက် တောင့်တခဲ့

ဝိနည်းဆိုင်ရာ ပါရာဇိကဏ်ပါဠိတော်နှင့် အဋ္ဌကထာတို့ကို ချပို့ရေးသားအပြီးတွင် အဆက်ဖြစ်သောပါစိတ်ပါဠိတော်နှင့်အဋ္ဌကထာကို ဆက်လက်ချပို့ရေးသားပြန်ရာ ၁၃၂၅ ခုနှစ် နယုန်လထဲက ပြီးစီးခဲ့ပြန်၏၊ ထိုကျမ်းစာနိဒါန်း၌ ဆရာတော်ကိုယ်တိုင်က ဤသို့ မျှော်မှန်းတမ်းတ ဆန္ဒပြုထားလေသည်၊ "မသေလို့ နေရသေးလျှင် ကျန်သေးသော ဝိနည်းအဋ္ဌကထာအဖွင့်များ၊ အဋ္ဌသာလိနီအဋ္ဌကထာနှင့် မူလဋီကာအဖွင့်၊ သီလက္ခန်အဋ္ဌကထာအဖွင့် ဤအားလုံးကို အသက် ၇၀ အတွင်း၌ ပို့ချစီစဉ်ပြီးနိုင်ကောင်းတန်ရဲ့"ဟု မျှော်မှန်းထားပါသည်။

ဤသို့ ဆန္ဒရှိခဲ့သော ဆရာတော်သည် ယခု ၁၃၃၁ ခု ဆရာတော်၏ သက်တော် ၇၀ အရတွင် မျှော်မှန်းခဲ့သော "ပါရာဇိကဏ်၊ ပါစိတ်၊ မဟာဝါ၊ စူဠဝါ၊ ပရိဝါ"ဟူသော ဝိနည်းအဋ္ဌကထာကြီးများကို အစုံအလင် အကုန်အစင် ပြီးစီးအောင် ဘာသာဋီကာ ဖွင့်ဆိုရေးသားနိုင်ခဲ့၏၊ ပါရာဇိကဏ်ဘာသာဋီကာဆိုလျှင် "ပ+ဒု+တ+စ"ဟူ၍ အုပ်တွဲကြီးလေးတွဲအထိ ရှိလေသည်။

ထို့ပြင် အဋ္ဌသာလိနီအဋ္ဌကထာနှင့် မူလဋီကာတို့၏ အဖွင့်များလည်း ရေးသားပြီးစီးနိုင်ခဲ့၏၊ ဤသို့လည်း "ပ+ဒု+တ+စ"ဟူ၍ ခံ့ညားသောအုပ်တွဲကြီး လေးတွဲပင် ရှိလေသည်၊ စာအုပ်ကြီးများကို ဖူးတွေ့ရမှ ပို၍ အားရစရာကောင်း၊ ကြည်ညိုစရာ ကောင်းလှသည်၊ ထို့နောက် အခက်ဆုံးဖြစ်သော သီလက္ခန်အဋ္ဌကထာအဖွင့်ကိုလည်း အောင်မြင်စွာ ရေးသားပြီးစီးနိုင်ခဲ့ပြန်တော့သည်၊ ဤ၌လည်း "ပ+ဒု+တ+စ" ဟူ၍ ကြီးမားခံ့ညားသော အုပ်တွဲကြီး လေးအုပ်ပင် ဖြစ်၏၊ ဤအဋ္ဌကထာကြီးများ ပြီးစီးကတည်းက ဆရာတော်မှာ အတော်ပင် အားရ ကျေနပ်နေခဲ့ရသည်။

## ဂါထာပေါင်းငါးရာ ခုဒ္ဒသိက္ခာ

ထိုမျှမကသေး, ဝိနည်းပါဠိတော်ငါးကျမ်းကို အဆီညှစ်၍ အနှစ်ပြထားသော ဂါထာပေါင်း ၅၀၀ ခန့်ရှိသည့် ဝိနည်းဆိုင်ရာ ခုဒ္ဒသိက္ခာကျမ်းကိုလည်း ကျေးဇူးရှင် ဆရာတော်ဘုရားကြီးတို့၏ အမိန့်အရ အခြားသော အဋ္ဌကထာကြီးများ၏ကြားမှ တမင်တကာ အခွင့်အခါ ယူပြီးလျှင် ဤအသက် ၇၀ အတွင်းမှာပင် စီရင်ပြီးစီးနိုင်ခဲ့ပြန်သေး၏။

**"ဥဇ္ဇာရုဇ္ဇာသယာနံ နိသမ္မကာရီနံ ပဋိပတ္တိ**
**ပရေသံ ဝိဝိဓဟိတသုခ နိပ္ဖာဒနပ္ပယောဇနာ"**

"မွန်မြတ်သော နှလုံးသားဖြင့် စဉ်းစားဆင်ခြင် မြော်မြော်မြင်မြင် ပြုလေ့ရှိသော ပုဂ္ဂိုလ်မြတ်တို့၏ အလုပ်သည် တစ်ပါးသူတို့အား အမျိုးမျိုးအစားစား စီးပွားချမ်းသာကို ဖြစ်စေနိုင်၏။"

ဤကား ဓမ္မသင်္ဂဏီ အနုဋီကာဆရာ၏ အဆိုအမိန့်တည်း၊ ဤအဆိုအမိန့်နှင့် အညီ မွန်မြတ်သော စိတ်ထားဖြင့် အများအတွက် ကြိုးစားစီရင်ခဲ့သော ဆရာတော် အရှင်ဇနကာဘိဝံသ၏ ကျမ်းစာတို့သည် ယခုအခါ အများအတွက် အတိုင်းမသိ အကျိုးပြုလျက် ရှိနေချေပြီတည်း။

ဆရာတော်၏ ရုပ်နာမ်ခန္ဓာတို့မှာ သဘာဝ နိယာမကြီးကို မကျော်လွှန်နိုင်၍ တန့်နားတုန့်ရပ်လျက် အနားယူနေကြရသည့်တိုင် ဆရာတော်၏ မွန်မြတ်သော စေတနာ, ထက်သန်သော ဇွဲလုံ့လများကြောင့် ပေါက်ဖွားလာရသော ကျမ်းစာတို့ကား အစဉ်အမြဲ အသက်ဝင်လျက်, လှုပ်ရှားလျက် တစ်ပါးသူ၏ အကျိုးအတွက် အလုပ်လုပ်လျက် ရှိလိမ့်မည်သာတည်း။

## မရပ်မနား ဇွဲလုံ့လများ
## တစ်ဘဝသံသရာဖြစ်ပေါ်လာပုံ

ယခုအခါ ရည်မှန်းထားသော အမာခံသင်ရိုး အဋ္ဌကထာကြီးများကို ဘာသာဋီကာအဖြစ်ဖြင့် ဖွင့်ဆိုပြီးမြောက်၍ ကျေနပ်အားရနေသည်ကားမှန်၏၊ သို့သော် လုံ့လဝီရိယကို လျှော့၍ အေးအေးသက်သာ အနားယူ၍နေပြီလော၊ မနေသေးပါ၊ သက်တော် ၇၀ ရှိပြီဖြစ်လျက် ဆက်လက်ကြိုးစားလျက်ပင် ရှိပါသေးသည်၊ ဆရာတော်က စပ်မိတိုင်း သူ၏ ဝါဒကို မိန့်ဟလေ့ ရှိပါ၏၊ "ဘုန်းကြီးက...အလုပ်လုပ်ဖို့အတွက်တော့ အသက်ရှည်ချင်ပါသေးတယ်၊ အသက်ရှည်သမျှလဲ အလုပ်ကိုတော့ လုပ်နေမှာပဲ၊ အလုပ် မလုပ်နိုင်တော့ဘူးဆိုရင်လဲ အသက်ရှည်၍ မနေလိုတော့ပါဘူး၊ သေပြီး၍ပဲ အနားယူပါတော့မယ်"ဟူသည်တည်း။

ဆရာတော်သည် အလုပ်ကို တန်ဖိုးထား၏၊ နားနေသည်ကို မကြိုက်, တုံးတိုက်လုပ်သည်ကိုလည်း မနှစ်မြို့, သဒ္ဓါ သတိ သမာဓိ ပညာတို့ ပါဝင်ဦးစီးသော လုံ့လဝီရိယကိုသာ မြတ်နိုးတော်မူ၏။

ထို့ကြောင့်ပင် ဇွဲလုံ့လကောင်းတော်မူခဲ့သော အလောင်းတော် ဇနကမင်းသားကို အားကျ၍ မိမိဘွဲ့နာမည်ကိုပင် "ဇနက"ဟု မိမိဘာသာ မှည့်လိုက်သည်။

ယခုအခါ ငယ်စဉ်ကစ၍ ယခုတိုင်အောင် မိမိဖြတ်သန်းခဲ့ရသော ဘဝလမ်းကို (နောက်ပြန်လှည့်၍) မျှော်မှန်းစဉ်းစားကြည့်မိ၏၊ ပျော်ရွှင်ခဲ့ရသော ဘဝ, ညှိုးနွမ်းခဲ့ရသောဘဝ, ဝမ်းသာခဲ့ရသောဘဝ, ဝမ်းနည်းခဲ့ရသောဘဝ, ပြည့်စုံခဲ့ရသောဘဝ, ချို့တဲ့

ခဲ့ရသောဘဝ, အောင်မြင်ခဲ့ရသောဘဝ, အောင်မြင်မှု မရှိသောဘဝ စုံလှ၏၊ တစ်ခါတလေ ကုန်းကမူ တောင်တန်း အမြင့်လမ်းက သွား၍ တစ်ခါတလေ အနိမ့်တန်း ချိုင့်ဝှမ်းလမ်းက သွားရသော ခရီးသွားပမာ၊ တစ်ခါတလေ ဘဝမုန်တိုင်း ဒီလှိုင်းထန်သော ရေလယ်တွင် လှေငယ်ဖြင့် ခရီးသွားရသလို အသည်းယားစရာ, ရင်ဖိုစရာ ဖြစ်ခဲ့ရ၏။

ဝမ်းသာစရာ, ဝမ်းနည်းစရာ, အားတက်စရာ, အားပျက်စရာ, သံဝေဂယူစရာတို့ဖြင့် ပြွမ်းနေသော မိမိဘဝကို တွေ့ရ၏။

ဤအကြောင်းအရာအားလုံးကိုပင် စုပေါင်း၍ မိမိ၏ တစ်ဘဝအကြောင်းကို "တစ်ဘဝသံသရာ" အဖြစ်ဖြင့်တင်ပြရလျှင် ကောင်းချိမ့်မည်ဟု စဉ်းစားမိ၏။

သို့ဖြစ်၍ ၁၃၃၁ ခုနှစ်မှစတင်ကာ တဖြည်းဖြည်းချင်း ရေးသားထုတ်ဖော်ပါလေသည်။

## ရိုးသားသောဆရာတော်

"တစ်ဘဝသံသရာ"ဟု နာမည်ပေးပုံက ဆန်းနေသော်လည်း အမှန်မှာ "အတ္ထုပ္ပတ္တိ"ပင် ဖြစ်၏၊ အတ္ထုပ္ပတ္တိဟူသည် ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်၏ ဘဝဇာတ်ကြောင်းကို ဖော်ပြသောစာအုပ်ဖြစ်သည်၊ ထို့ကြောင့် အများက ဤသို့ထင်နိုင်၏၊ "အတ္ထုပ္ပတ္တိစာပေဆိုတာ အတ္ထုပ္ပတ္တိရှင်၏ ထူးခြားပုံ ပြောင်မြောက်ပုံ အကောင်းတွေ အစုံကို ရွေးပြီး ဖော်ပြလေ့ရှိတဲ့ စာမျိုးပဲ, အခုလည်း ဒါမျိုးတွေပဲ, ရွေးပြီး ရေးရမှာပေါ့"ဟူ၍ ဖြစ်၏၊ ဤသို့ ဆိုကောင်းဆိုနိုင်ပါသည်၊ သို့သော် ဤ"တစ်ဘဝသံသရာ"စာအုပ်ကား ထိုသို့ မဟုတ်ပါချေ၊ နာမည်ပေးပုံက ဆန်းသလောက် တင်ပြထားသော အကြောင်းအရာလေးတို့က ရိုးသားလှပါသည်။

ယင်းစာအုပ်နိဒါန်း၌ ဆရာတော်ကိုယ်တိုင်က တင်ပြထားသည်မှာ "မိမိသည် အလွန်ငယ်ရွယ်စဉ်က အဘိုးထံမှလည်းကောင်း, ဘုန်းတော်ကြီးကျောင်းသို့ ရောက်သောအခါ ဆရာသမားများထံမှလည်းကောင်း ရှေး သူတော်ကောင်း သူမြတ်လောင်းတို့၏ နုစဉ်အခါတုန်းက အဖြစ်တော်စဉ်များကို ကြားရ၏၊ ထိုသို့ ကြားရသောအခါ မိမိ၏ ရှေးရှေးဘဝက ဖြစ်သော အစဉ်များကိုလည်းကောင်း, အထူးအားဖြင့် လွန်ခဲ့သောဘဝဖြစ်စဉ်ကိုလည်းကောင်း အလွန် သိလိုသောဆန္ဒ ဖြစ်ခဲ့ပါသည်၊ ထို့ကြောင့် ရှေးဘဝဖြစ်စဉ်တို့ကို တွေး၍ ကြည့်၏၊ ဘာမျှ မပေါ်လာပါ၊ နတ်များက အိပ်မက်ပေးတတ်သည်ဟု ကြားဖူးသောကြောင့် တစ်ခါတစ်ရံ အိပ်မက်မက်ဖို့ရန် တောင့်တ၍ အိပ်၏၊ မက်ကား မမက်ပါ"ဟူ၍လည်းကောင်း, ဤသို့ တောင့်တပါလျက် ရှေးဘဝအကြောင်းအရာကိုမျှ မသိရသောအခါ မိမိဉာဏ်ကို မကျေနပ်သလို ဖြစ်ရသည်၊ သို့သော် ယခုဘဝ အကြောင်းအရာတွေကိုကား အတော်များများ မှတ်မိနေ၏၊ ဤသို့ မှတ်မိသမျှကို "တစ်ဘဝသံသရာ"အဖြစ် တင်ပြရလျှင် ကောင်းလိမ့်မည်ဟု စဉ်းစားမိ၏"ဟူ၍လည်းကောင်း ဤစာကြောင်း ဝါကျတို့ကို ထောက်ထားသောအားဖြင့် ဆရာတော်တင်ပြသည့် "တစ်ဘဝသံသရာ"ကား အများထင်သလို မဟုတ်ဘဲ ရိုးရိုးကလေးသာ ဖြစ်လိမ့်မည်ဟု သိနိုင်ပါတော့သည်။

တစ်ဘဝသံသရာစာအုပ်ကိုရေးရာ၌ ဤစာအုပ်တစ်အုပ်တည်းကိုသာ အာရုံစိုက်၍ ရေးနေသည် မဟုတ်ပါ၊ ထုံးစံအတိုင်း အခြားသော အဋ္ဌကထာကြီးများကိုလည်း ပို့ချရေးသားလျက်ရှိနေပေသည်။

## ကျန်အဘိဓမ္မာအဋ္ဌကထာများ

အဘိဓမ္မာဆိုင်ရာ၌ ဓမ္မသင်္ဂဏီပါဠိတော်အဖွင့် သင်ရိုးဖြစ်သော အဋ္ဌသာလိနီအဋ္ဌကထာကို အုပ်တွဲကြီး လေးတွဲဖြင့် ဘာသာဋီကာ ဖွင့်ဆိုရေးသားခဲ့ပြီးလေပြီ၊ ယခု သက်တော် ၇၀ ရှိပြီဖြစ်သော်လည်း ကျန်းမာရေးကောင်းတုန်း, ကျမ်းစာရေးသားရန် စိတ်ဓာတ် ထက်သန်တုန်း အလုပ်တွေ အောင်မြင်ပြီးမြောက်လာသဖြင့် ယခုမှ ပိုပြီး အလိုကျ ကျေနပ်မှုတွေ ရနေတုန်းရှိသေး၏။

ထို့ကြောင့် ကျမ်းမာရေး ကောင်း၍ အခွင့်ကောင်း ရခိုက်တွင် ရှေ့အဆက်ဖြစ်သည့် (ကျန်သေးသော အဘိဓမ္မာဆိုင်ရာ) ဝိဘင်းပါဠိတော်၏ အဖွင့် သမ္မောဟဝိနောဒနီ အဋ္ဌကထာကို ဆက်လက်၍ချပို့ရင်း ဘာသာဋီကာဖွင့်ဆိုပြန်လေသည်။

ဗုဒ္ဓမြတ်စွာ၏ အဘိဓမ္မာတရားတော်တို့တွင် ဤဝိဘင်းပါဠိတော်ကြီးသည် တရားသိဖွယ် အသွယ်သွယ်ကို နည်းမျိုးစုံ ခြယ်လှယ်၍ သိဖွယ်ကောင်းအောင် (စိတ်ဝင်စားအောင်) ဟောပြထားသောဒေသနာတော်ကြီး ဖြစ်ပေသည်၊ မှန်ပေ၏၊ ခန္ဓဝိဘင်း, အာယတနဝိဘင်း စသောအားဖြင့် ၁၈ ရပ်ရှိ၍ သိဖွယ်တွေ များလှ၏၊ ဝိဘင်းတစ်ရပ်တစ်ရပ်တွင်လည်း သုတ္တန်နည်း,အဘိဓမ္မာနည်းဖြင့် ခွဲခြား ဟောပြထားသေး၏၊ ထို့ပြင် အမေးပြဿနာနည်းအားဖြင့်လည်း ဟောကြားတော်မူသေး၏။

ထို့ကြောင့် သိလိုသောဆန္ဒဖြင့် သေချာစွာ သင်ယူပါလျှင် မသိနိုင်စရာ မရှိလောက်အောင် ရှင်းလှပေ၏၊ သို့ဖြစ်၍ ရှေးဆရာ့ဆရာတော်ကြီးများက "အလွန်ပြည့်စုံတဲ့ ကျမ်းကြီးပဲ"ဟု မိန့်မြွက်ကြ၍ အဆက်ဆက် နှစ်သက် ကြည်ညိုတော်မူခဲ့ကြလေသည်။

ဤသို့ ကြည်ညိုဖွယ်ကောင်းသည့်အတိုင်း ဆရာတော်က ပို့ချ၍ ဘာသာဋီကာဖွင့်ဆိုခဲ့ရာ သုံးနှစ်ခန့်နီးပါး ကြာသောအခါ "ပ+ဒု+တ"အုပ်တွဲကြီးသုံးတွဲ ပေါ်ထွက်လာခဲ့သည်၊ ၁၃၃၅ ခုနှစ် ကုန်ခါနီး တန်ခူးလတွင် အောင်မြင်ပြီးစီးခဲ့လေ၏။

ဆရာတော်၏စွမ်းအား, ဆရာတော်၏လုပ်အားတို့ကား အများသိခဲ့ကြပြီးအတိုင်း ဖြစ်၏၊ မချီးကျူးဘဲ နေ၍ ရမည်လော၊ သက်တော်က ရင့်ညောင်းလာလေ, ဉာဏ်အားတွေ တက်လေ, အလုပ်တွေက တွင်လေ ဖြစ်လေ၏၊ သာသနာ့ဝင် ထေရ်အရှင်တို့ အများစုပေါင်း ဝိုင်းဝန်း၍ လုပ်သင့်သော အလုပ်တွေကို ဆရာတော်တစ်ပါးတည်းက ဒိုင်ခံ၍ အလုပ်လုပ်နေခဲ့သည်၊ ယခု ကျန်းမာရေးက ကောင်းတုန်းဖြစ်သေး၏၊ ထို့ကြောင့် ကျန်သေးသော အဘိဓမ္မာ အဋ္ဌကထာများနှင့် ကျန်သေးသော သုတ္တန်ဆိုင်ရာ အဋ္ဌကထာများကို ဘာသာဋီကာဖွင့်ဆိုရန် စီမံပြင်ဆင်နေပြန်လေပြီ။

## ဆွမ်းဝေယျာဝစ္စ ဒါယိကာမကြီးဒေါ်ရှမ်း

### အလုပ်လုပ်နိုင်ဖို့သာ စားနေတာ

အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်၌ သံဃာတော်များအတွက်နံနက်အရုဏ်ဆွမ်းကို ဆရာတော်က အစဉ်အမြဲ ကျွေးမွေး၏၊ နေ့ဆွမ်းအတွက်မူ အမရပူရမြို့နှင့် အနီးဝန်းကျင် ကျေးရွာများသို့ ဆွမ်းခံကြွကြသည်၊ ဆွမ်းအတွက် လုံလောက်အောင် ပင် မြို့ခံနှင့် ဝန်းကျင် ဒါယကာ ဒါယိကာမတို့က ထောက်ပံ့ကြ၏၊ နံနက်အရုဏ်တွင် ပဲပြုတ်နှင့် ချဉ်ရည် (သို့မဟုတ်) ပဲပြုတ်နှင့် ငါးပိငံပြာရည် နှစ်ခွက်လောက်ဖြင့် ဆရာတော်က အမြဲကျွေး၏၊ ဆရာတော်လည်း ထိုဆွမ်းကို ထိုဟင်းမျှဖြင့်ပင် တင်းတိမ်တော်မူသည်၊ နေ့ဆွမ်းအတွက်လည်း စား၍ဖြစ်လောက်အောင် ဆရာတော်က သံဃာတော်များအတွက် ဆွမ်းတစ်ပွဲလျှင် ဟင်းနှစ်ခွက်စီ ပေးသေး၏၊ ဆရာတော်အတွက်ကား ဆွမ်းဝေယျာဝစ္စပြုစုကြသော ဒါယိကာမတို့က နေ့ဆွမ်းအတွက် သီးသန့် ချက်၍ ကပ်ကြရသည်၊ သီးသန့်ချက်၍ ကပ်ရသော်လည်း ဟင်းခွက်များလှသည် မဟုတ်ပါ၊ တစ်ခွက် နှစ်ခွက်မျှဖြင့်ပင် ဘုဉ်းပေးမြဲ ဖြစ်ပါသည်၊ ဟိုက ဒီက လှူလာသူရှိ၍ ဟင်းခွက်များ ပိုလာလျှင်လည်း မစားတတ်သလို ဖြစ်ကာ သံဃာများ ထံသို့ပင် ပို့ တတ်ပါ၏။

ဆရာတော်က အမိန့်ရှိတတ်သည်၊ "သင့်တင့်မျှတရုံစားရ တော်ရောပ, လူဟာ စားဖို့ အသက်ရှင်နေတာမဟုတ်ဘူး၊ အသက်ရှင်ဖို့ စားနေရတာ" လို့ အများက ပြောကြတယ်၊ မဆိုးသေးပါဘူး၊ ဒီစကားကို ဘုရားကိုယ်တော်မြတ်ဟောတဲ့ "ကြမသသ ကာယဿ ဋ္ဌိတိယာ-ဤခန္ဓာကိုယ်ကြီး တည်တံ့ အသက်ရှင်ဖို့ဆိုတာနှင့် ကိုက်ညီပါတယ်။



သာသနာပြုရာမှာ ကပ္ပိယကောင်းကောင်းရှိဖို့ လိုတယ်။



သံဃာများ၏ ဆွမ်းဝေယျာဝစ္စကို ကြောင့်ကြစိုက်ရသော ကပ္ပိယကာရကအဖွဲ့
(အလယ်က ဒေါ်ရှမ်း)

ဒါပေမယ့် အကြောင်းမဲ့ တည်တံ့ရမှာတော့ မဟုတ်ဘူးနော၊... "ဖြဟ္မစရိယာနုဂ္ဂဟာယ"တဲ့၊ "တရားအားထုတ်နိုင်ဖို့ အလုပ်လုပ်နိုင်ဖို့"တည်တံ့ရမှာ၊ ဒါကြောင့် ဘုန်းကြီးအကြိုက်ကတော့... "အသက်ရှင်ဖို့ စားနေရတာ"ဆိုတာထက် "အလုပ်လုပ်နိုင်ဖို့ စားနေရတာ"ဆိုတာကို ပို၍ ကြိုက်တယ်" ဟူ၍ မိန့်တတ်သည်။

ထိုမျှလောက် "ယထာလာဘ သန္တောသ" ရရသမျှဖြင့် မျှတ ကျေနပ်တော်မူတတ်သော်လည်း ဆွမ်း, ဆွမ်းဟင်းကလေးများ အဆင်ပြေအောင် စီမံတတ်သူကား ရှားလှ၏။

ဤသို့ဖြင့် မျှတဘုဉ်းပေး လာခဲ့ရာ ၁၃၃၂ ခုနှစ်လောက်တွင်ကား ဆရာတော်၏ ခယ်မတော်သူ ဒေါ်ရှမ်း (ညီဖြစ်သူ ဦး လာသန လူထွက် ကိုဘခိုင်၏ ဇနီး) ရောက်လာတော့၏၊ ဆွမ်းဝေယျာဝစ္စ ပြုဖို့ရန် ဖြစ်သည်၊ ထိုအခါ ဆရာတော်က "ငါ ကံကောင်းလာပြီ, ငါ ကံကောင်းပြီ" ဟူ၍ပင် ဝမ်းသာအားရ အမိန့်ရှိပါသတတ်။

## ဆရာတော့်ဆွမ်းကျန်စားလိုသူ

ဒေါ်ရှမ်းကား မီးဖိုချောင်ကိစ္စကို စိတ်ချရ အောင် စနစ်တကျ စီမံတတ်သူဖြစ်၏၊ မယိုမဖိတ် အောင်, မကုန်တန်သမျှ မကုန်ကျအောင် ထိန်းသိမ်းတတ်သည်၊ ဆရာတော်ကလည်း စနစ်ကြီးသည်၊ သရိုင်သားပီပီ အလွန်နှမြောသည်၊ နှမြောသည်ဆိုခြင်းထက် "အပိုမကုန်အောင် စနစ်ကြီးသည်"ဟု ဆိုခြင်းက ပို၍ မှန်ပါလိမ့်မည်၊ အဘယ်ကြောင့်ဆိုသော် သောက်ရေအိုးမှ ရေကို ခပ်၍ ဘုဉ်းပေးရာတွင်ပင် ကုန်လောက်ရုံသာ ခပ်၏၊ ပိုမည်ထင်လျှင် မသောက်မီကပင် အိုးထဲသို့ ပြန်၍ သွန်တတ်၏၊ ရေပို ရေလျှံ ဘေးသို့ သွန်ပစ်သည်ကို အလွန်အပြစ်ပြောတော်မူ၏။

ဆရာတော်က ရေဘုဉ်းပေးလို၍ တစ်ပါးသူအား အခပ်ခိုင်းရာတွင်လည်း ဖန်ခွက်ထဲ၌ ပြည့်လွန်းနေသဖြင့် ကုန်ပုံမပေါ်လျှင် "ပြန်ထည့်လိုက်ဦး"ဟူ၍ မိန့်တတ်၏၊ ပြန်ထည့်၍ အကျန်များနေသေးပုံပေါ်လျှင် "အိုးထဲကို နည်းနည်းပြန်သွန်လိုက်ဦး"ဟု ဆိုတတ်ပြန်သည်၊ ဆရာတော်က သူသောက်လိုသမျှ အံကိုက်လောက် ဖြစ်မှ ယူ၍ သောက်တတ်၏။

ဆွမ်းကပ်သောအခါတွင်လည်း ဒါယိကာမကြီး ဒေါ်ရှမ်းက ဆွမ်းအုပ်ဖြင့် ထည့်၍ ကပ်တတ်ရာ ဆရာတော်က မကပ်မီ အဖွင့်ခိုင်းတတ်၏၊ ဖွင့်ပြ၍ တစ်ဆုပ်စာလောက် များနေပုံပေါ်လျှင် ပြန်ပြီး အယူခိုင်းတတ်၏၊ သူဘုဉ်းပေးလိုသမျှ အံကိုက်လောက်ဖြစ်မှ အကပ်ခံ၍ ဘုဉ်းပေးတတ်၏၊ ဘုဉ်းပေးပြီးသောအခါ ဆွမ်းပို မရှိ၊ ဟင်းပိုလည်း မရှိ၊ အံကိုက်ဖြစ်တော့သည်။

တစ်ခါသော် အဝေးမှလာ၍ ကျောင်းတိုက်သံဃာများအား ဆွမ်းကပ်သော ဆွမ်းအလှူရှင် ဒါယကာကြီးတစ်ဦးက "ဆရာတော့်ဆွမ်းကျန်ကို စားလိုပါသည်"ဟု ဒေါ်ရှမ်းအား ပြော၍ အနားတွင် လာစောင့်ဖူး၏၊ ဒေါ်ရှမ်းက အကြောင်းသိ, အစင်းသိ ဖြစ်၍ ပြုံးနေမိသည်ဟူသတတ်၊ ဆရာတော် ဆွမ်းစားပြီး၍ ဆွမ်းပွဲသိမ်းသောအခါ ထိုဒါယကာကြီးမှာ အံ့အားသင့်နေတော့၏။

အကြောင်းကား ဆွမ်းရော ဟင်းပါ အကုန် ပြောင်နေသောကြောင့်တည်း။

## လူကြီးအမြင်နှင့်ကလေးတို့အမြင်

ဆရာတော်က စနစ်တကျရှိမှ ကျေနပ်တတ်သလို ဒါယိကာမကြီး ဒေါ်ရှမ်းကလည်း တစ်ကျောင်းတိုက်လုံး၏ မီးဖိုချောင်ကိစ္စကို စိတ်ချရအောင် စီမံတတ်သည်၊ ဆွမ်းဆန်, စွန်တာနီပဲ, ငါးပိ ငံပြာရည်, ဆီ, ဆား, ငရုတ်, ကြက်သွန်, ထန်းလျက်, ချက်ပြုတ်သုံးစွဲသော ထင်း, ဖွဲတို့ကိုပါ အပိုမကုန်ရအောင်, မယိုမဖိတ်ရအောင် ကြောင့်ကြရသည်။

တစ်ခါတလေ ဖိုးသူတော်ကလေးများ, ကိုရင်ပေါက်စကလေးများက ရေတိုင်သို့ သွား၍ မျက်နှာသစ်ရာတွင် ရေပိုက်ခေါင်းကို ဦးစွာ ဖွင့်ထားတတ်၏၊ ဒလဟော ရေတွေ ကျနေသည်၊ လက်ကမူ ဆပ်ပြာအုပ်ကို ဖွင့်နေတတ်၏၊ သို့မဟုတ် သွားပွတ်တံဖြင့် သွားတိုက်နေတတ်၏၊ ထိုအခါ ရေတွေ အလဟဿ ကျဆင်းကုန်ရသည်။

ဒါယိကာမကြီးဒေါ်ရှမ်းက မနေနိုင်၊ မိခင်ကြီး သဖွယ် သွား၍ ပြောရတော့၏၊ "ဦးသူတော်, ကိုရင် ဘာလို့ ရေတွေ အလဟဿ ကုန်စေရတာလဲ၊ ဆပ်ပြာတိုက်ပြီး သွားတိုက်ပြီးလို့ လိုတဲ့အခါမှ ဖွင့်ပါတော့လား"၊ ဤသို့လျှင် အရာရာတွင် မိခင်ကြီး သဖွယ် ကြောင့်ကြရပါ၏၊ ငယ်ရွယ်သူများ၏ အမြင်ကား တစ်မျိုးဖြစ်ပေလိမ့်မည်၊ အကြီးအကဲအုပ်ချုပ်ရသူတို့မှာ အားလုံးအတွက် အရာရာတွင် ကြောင့်ကြရပါ၏၊ မကြောင့်ကြ၍ ဖြစ်မည်လော၊ သံဃာဦးရေပေါင်း များစွာအတွက် အဘက်ဘက်က ယိုဖိတ်ကုန်လျှင် မည်သူတွေ အခက်ကြုံမည်နည်း၊ ကြီးမားလှသော တာဝန်ကြီးကို ထမ်းဆောင်ရသူတို့မှာ စောင့်ရှောက်နိုင်ကာမှ တန်ကာကျတတ်သည် မဟုတ်လော။

## ငါးရာကျော်အတွက် တစ်နေ့ကုန်ကျငွေနှုန်း

ကျောင်းတိုက်သံဃာများ အခြားမှ သီးသန့်လာ၍ ဆွမ်းကပ်သူမရှိလျှင် ကျောင်းတိုက်မှာပင် နေ့စဉ်နေ့တိုင်း နံနက်အတွက် ဆွမ်း, ဆွမ်းဟင်း၊ နေ့ဆွမ်းအတွက် ဆွမ်းဟင်းများကို စီစဉ်ပေးရ၏။

ဤကိစ္စများကို ဒါယိကာမကြီးဒေါ်ရှမ်းက ကြောင့်ကြရသည်၊ တစ်နေ့ပြီးပြန်တော့ နောက်တစ်နေ့အတွက် စဉ်းစားရ၏၊ နောက်တစ်နေ့ ပြီးပြန်တော့လည်း ထို့နောက် ထို့နောက်နေ့များအတွက် ခေါင်းထဲမှာ အစီအစဉ် လုပ်ထားရသည်။

ဤသို့ နေ့တိုင်း စီစဉ်ပေးနေရသဖြင့် ဒါယိကာမကြီး ဒေါ်ရှမ်းအဖို့ တစ်နေ့ ကုန်ကျနှုန်းကို အလွတ်ရနေတော့၏၊ ဘာက ဘယ်လောက်, ဘာက ဘယ်လောက် နေ့စဉ် ဝယ်ရ ချက်ပြုတ်နေရသည်ဟု သိမြင်နေတော့၏၊ တစ်ခါက မေးကြည့်ဖူးသည်။

"ဒကာမကြီးဒေါ်ရှမ်း, သံဃာ ၅၀၀ ကျော်အတွက် တစ်နေ့ ဘယ်လောက် ကုန်ပါသလဲ?"ဟု မေးရာ အောက်ပါအတိုင်း မဆိုင်းမတွ ကရားရေလွှတ် တတွတ်တွတ်နှင့် စီကာ စဉ်ကာ ပြောပြပါတော့၏။

ဂန္ဓာရုံတိုက်အတွက် တစ်နေ့တာကုန်ကျငွေနှုန်းများ

| | |
|---|---|
| ၁။ ဆန် ၅ တင်း၊ အရုဏ်ဆွမ်းအတွက် (၈ဝိ/ နှုန်းဖြင့်) | ၄၀၀. ၀၀ |
| ၂။ ပဲ ၁၈ ပြည် (၇ဝိ/နှုန်းဖြင့်) | ၁၂၆၀. ၀၀ |
| ၃။ ဆီ ၅ ပိဿာ (၂၄ိ/နှုန်းဖြင့်) | ၁၂၀. ၀၀ |
| ၄။ ဆား ၃ ပိဿာ (၁ိ/၅၀ါး ။) | ၄. ၅၀ |
| ၅။ ငံပြာရည် ၇ ပိဿာ (၆ိ/။) | ၄၂. ၀၀ |
| ၆။ ငရုတ်သီးမှုန့် ၅၀ ကျပ်သား | ၁၂. ၀၀ |
| ၇။ နနွင်းမှုန့် | ၁. ၀၀ |
| ၈။ ကြက်သွန် ၅ ပိဿာ (၄ိ/။) | ၂၀. ၀၀ |
| ၉။ ထန်းလျက် ၂၀ ပိဿာ | ၁၂၀. ၀၀ |
| ၁၀။ ချင်း ၅၀ ကျပ်သား | ၃. ၀၀ |
| ၁၁။ ကြက်သွန်ဖြူ ၅၀ ကျပ်သား | ၁၅. ၀၀ |
| ၁၂။ ဟင်းသီးဟင်းရွက် (တစ်နေ့တွက်) | ၈၀. ၀၀ |
| ၁၃။ ထင်းဖိုး (အခြမ်း ၁၀၀) | ၃၅. ၀၀ |
| ၁၄။ ရေ, မီးအတွက် မီတာခ (တစ်နေ့) | ၂၀. ၀၀ |
| ၁၅။ ထမင်းချက်သမား (၅) ယောက်အတွက် | ၃၀. ၀၀ |
| ၁၆။ အထွေထွေ သေးသေးမွှားမွှား | ၁၀၀. ၀၀ |
| စုစုပေါင်း | ၂၂၆၂. ၅၀ |

## အားလုံးစုစုပေါင်းလျှင်

တစ်ပတ်လျှင် အသားဟင်း နှစ်ကြိမ်နှင့် သုံးကြိမ် ပါတတ်သဖြင့် ထိုငွေထက် ပိုကုန်သွားနိုင်ပါသည်၊ ထို့ပြင် နာယကဆရာတော်များနှင့် စာချ ဘုန်းကြီးများအတွက် ကော်ဖီ မုန့်ကျွတ် စသည် ထွေထွေရာရာ ပါတတ်သေး၏၊ တစ်ကျောင်းတိုက်လုံးအတွက် ကျန်းမာရေး ဆေးပစ္စည်းကိုလည်း တစ်ကြိမ်ဝယ်လျှင် တစ်ထောင့်ငါးရာကျပ်ဖိုးထက် မနည်း မကြာ မကြာ ဝယ်ရတတ်သေးသည်။

"အားလုံး စုစုပေါင်းလျှင် တစ်နေ့ တစ်နေ့ ကုန်ကျငွေနှုန်းမှာ နှစ်ထောင်ကျော်ဖိုး ရှိပါသည်"ဟု ဒါယိကာမကြီး ဒေါ်ရှမ်းက ပြောပြပါ၏။















ဘုန်းကြီးက
သာသနာတော်အတွက်
အလုပ်လုပ်ဖို့ စားနေပါတယ်၊
သူတစ်ပါးအကျိုး မသယ်ပိုးရင်
ကိုယ့်အကျိုးလဲ မရှိနိုင်ပါဘူး။

ဘဝပါရမီဆိုတာ
ဖြည့်ဆည်းဖို့ မလွယ်ဘူး၊
အများ ဝိုင်းဖြည့်ကြပေမယ့်
ကိုယ့်အစွမ်း ရှိသလောက်သာ
ကိုယ့်ဝေစုရပါမယ်။















တို့ဘုန်းကြီးတွေမှာ
လူတွေက ပိုလျှံမှ စားကြရတယ်၊ ဝတ်ကြရတယ်၊ နေကြရတယ်။
ဒါကို လောဘ ဒေါသတွေနဲ့
မြိန်ရေရှက်ရေစားနေလို့ မတော်ဘူး။
ဆင်ခြင်ပြီးမှ စားရမယ်။
မွတ်သိပ်ဆာလောင်ခြင်းကို ပယ်ဖျောက်၍
သာသနာ့ဝန်ကို ထမ်းဆောင်နိုင်ခြင်းအကျိုးငှာ
ဤခဲဖွယ်ဘောဇဉ်ကို
သုံးဆောင်စားသောက်ပါသည်။













ကိုယ်တော်တို့-
အားလုံး ကျန်းမာရေးဂရုစိုက်ကြ၊
ကျန်းမာရေးရှိမှ အလုပ်လုပ်လို့ဖြစ်တယ်။
သာသနာကို ခိုမစီးရဘူး ဝန်ကိုထမ်းရမယ်၊
သီလကို စင်ကြယ်အောင်ထိန်းကြ၊
သာသနာမှာ ဒါအရေးကြီးတယ်။

## ကြက်သီးထဖွယ်

ဟုတ်ပါသည်၊ ဤမျှ များပြားလှသော တစ်နေ့ကုန်ကျစွန်း၊ ဤမျှ များပြားလှသောပစ္စည်းတို့ကို ရဖို့ရန်အတွက် နှစ်စဉ်နှစ်တိုင်း နွေပိုင်းကျလျှင် ဟိုရွာ ဒီရွာ၊ ဟိုနယ် ဒီနယ်က ပင့်တတ်ကြ၏၊ ပင့်ကြသဖြင့် နောက်ပါ သံဃာ ၅၀-၁၀၀ မျိုးဖြင့် ရှေ့ကဦးဆောင်၍ ခရီးထွက်ရသောစာချဘုန်းကြီး၊ ဓမ္မကထိက၊ နာယကဆရာတော် ဦးကုဏ္ဍလာဘိဝံသအား လျှောက်ထားကြည့်ဖူးသည်။

"တစ်နှစ် တစ်နှစ်မှာ အဓိကဖြစ်သော ပစ္စည်း ဆန် ဆီ ဆား ပဲ ထန်းလျက်တွေ ဘယ်လောက်ကုန်ကျပါသလဲ၊ ဘယ်လောက်ရှိမှ လုံလောက်ပါသလဲဘုရား"ဟု မေးကြည့်ရာ... ဆရာတော် ဦးကုဏ္ဍလာဘိဝံသက ဤသို့ ပြောပါ၏။

၁။ ဆန်အတင်းပေါင်း - ၁၅၀၀

၂။ ဆီပေပါ ၁၅ လုံး(တစ်ပုံးနှစ်ရက်သာခပ်ရ)၊

၃။ ပဲအတင်းပေါင်း - ၂၀၀

၄။ ထန်းလျက် ပိဿာ - ၅၀၀၀ ကျော်

ဟူ၍ ပြောပြပါ၏၊ ကြက်သီးထဖွယ်၊ ကြည်ညိုဖွယ်ကြီးပင် ဖြစ်ပါတော့သည်၊ ... တိုင်းသူပြည်သား ဒါယကာ ဒါယိကာမများက သဒ္ဓါတရားဖြင့် လှူအပ်သော ပစ္စည်းတို့သည် ဤမျှ များပြားလှသော ပရိသတ်ကြီးအတွက် အလျှဉ်မိအောင် အလိုလိုဖြစ်ပေါ်နေသည်မှာလည်း အံ့ဩစရာပင် ဖြစ်၏၊ သားသမီး ငါးယောက် ခြောက်ယောက်ရှိသော အိမ်တစ်အိမ်အတွက်မှာပင် အဆင့်အတန်းမီအောင် အတော်ကြိုးစားကြရပါသည်၊ လုံ့လဝီရိယ ကံ ဉာဏ်တို့ဖြင့် များစွာ ဖန်တီးလှုပ်ရှားကြရပါ၏၊ ဤသို့ ကြိုးစားပါမှ စွမ်းအားရှိသူတို့အတွက် အချို့မှာသာ ထမြောက်အောင်မြင်မှု ရရှိပါသည်၊ ဤမျှလောက် ကြိုးစားကြရသည်ကို ထောက်လျှင် ယခုကဲ့သို့ ၅၀၀ ၆၀၀ ရှိသော သံဃာတော်တို့အတွက် အခက်အခဲ မရှိဘဲ လုံလောက်အောင် ဖြစ်ပေါ်နေသည်မှာ မအံ့ဩဘဲ နေ၍ ဖြစ်မည်လော။

ဆရာတော်ကြီး အရှင်ဇနကာဘိဝံသကမူ ... "သံဃာ့ဘုန်းကံပါ၊ ငါ့ဘုန်းကံ မဟုတ်ပါဘူး၊ သံဃာတော်များကသာ သီလ သမာဓိ ဖြူစင်အောင်နေပါ၊ ကိုယ်ကျင့်သိက္ခာ ပြည့်ဝအောင်သာ နေပါ၊ အလိုလိုဖြစ်လာမှာပဲ၊ သာသနာတော်မှာ သီလဟာ အရေးကြီးတယ်"ဟူ၍ မိန့်တော်မူတတ်ပါသည်။

## ဆရာတော်၏ ဘဝတစ်ကွေ့ အတွေ့အကြုံများ

### ဝန်ကြီးချုပ်ဦးနု ရောက်လာ

အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်ကြီးကို စနစ်တကျ မူချ၍ ဖွဲ့စည်းတည်ထောင်မည်ဟု အားခဲကာ ဆရာတော်က စီမံကိန်းဆွဲ၍ လုပ်ငန်းစခါစ ဖြစ်၏၊ သံဃာများလည်း အနည်းငယ်မျှသာ ရှိသေးသည်၊ အချိန်အားဖြင့် ၁၃၀၉ ခုနှစ် နောက်ပိုင်း (၁၉၄၈ ခုနှစ်) နွေဦးပေါက်လောက်က ဖြစ်၏။

ဖ. ဆ. ပ. လ အစိုးရ အဖွဲ့ကြီးတွင် ဦးနု ခေါင်းဆောင်၍ ဝန်ကြီးချုပ် ဖြစ်လာပြီးနောက် ကိစ္စတစ်ခုဖြင့် အထက်မြန်မာနိုင်ငံသို့ ရောက်လာခိုက် ဖြစ်သည်၊ တစ်နေ့တွင် ဦးနုသည် နောက်ပါ ကိုယ်ရံတော် တစ်ယောက်၊ လမ်းညွှန်ဦးဆောင်သူ တစ်ယောက်၊ ပေါင်း နောက်ပါ နှစ်ယောက်မျှဖြင့် မဟာဂန္ဓာရုံကျောင်းတိုက်တွင်းသို့ အမှတ်မထင် ရောက်လာသည်၊ ဦးနုမှာ လက်ထဲတွင် ကြိမ်တံပြာကလေးတစ်ခုလည်း ကိုင်လျက် ပါလာ၏၊ သူ့ဝါသနာအတိုင်း ခြေလှမ်းကျဲကျဲ လှမ်းကာ ဝင်ရောက်လာသည်၊ ရောက်လာရခြင်း အကြောင်းထူးကား များများ မရှိပေ။

ဆရာတော်ကို ကြည်ညို၍ပင်ဟု ဆိုရပါမည်၊ ဦးနုသည်... ဆရာတော် အရှင် ဇနကာဘိဝံသ ရေးထားသော သဂြိုဟ်ဘာသာဋီကာစာအုပ်ကြီးကို အလွန်သဘောကျသည် ဆို၏၊ ဝန်ကြီးချုပ်မဖြစ်ခင်က နဂါးနီစာအုပ်များလောကကို ဦးနု စတင်တည်ထောင်ခဲ့ခြင်း ဖြစ်၏၊ စာအုပ်မျိုးစုံကို လေ့လာဖတ်ရှုကြရာ တစ်နေ့သောအခါတွင် မိတ်ဆွေများ၏ အလယ်၌ ဦးနုက သဂြိုဟ်ဘာသာဋီကာစာအုပ်ကြီးကို မြှောက်ပြပြီး ဤသို့ ပြုံးရွှင်စွာဖြင့် ရွှန်းရွှန်း ဝေဝေ ပြောပါသတဲ့...

"အကယ်၍များ မြန်မာပြည်အစိုးရက လူတွေဟာ စာအုပ်များစွာ မဖတ်ရ, တစ်ယောက်မှာ စာအုပ်တစ်အုပ်သာ ဖတ်ရမည်လို့ ဥပဒေလုပ်ခဲ့ရင် ကျွန်တော်ကတော့ ဟောဒီ သဂြိုဟ်ဘာသာဋီကာ စာအုပ်ကြီးကို ရွေးရမှာပဲ၊ ဒါကို ကျွန်တော် လက်မလွှတ်နိုင်ဘူး"ဟူ၍ ပြောသတတ်။

## သာသနာဖြင့် အထွတ်တင်မှု

ဤသို့သော ကြည်ညိုမှု, ဤသို့သော စာပေမြတ်နိုးမှုဖြင့် ရောက်လာရခြင်း ဖြစ်ပေသည်၊ ဆရာတော်လည်း ဝန်ကြီးချုပ် ရောက်လာသောအခါ သင့်တော်သော ဧည့်ခံစရာ နေရာထိုင်ခင်းမျှ ပေးစရာ မရှိ၊ တိုက်တာကလည်း တည်ထောင်ခါစဖြစ်၍ အစစ အရာရာ မပြည့်မစုံချည်း ဖြစ်နေသည်၊ ထို့ကြောင့် ဖြစ်သလိုဖြင့် နေရာထိုင်ခင်း ပေး၍ ဧည့်ခံလိုက်၏၊ ဝန်ကြီးချုပ်ကလည်း စာရေးဆရာဘဝက လာခဲ့သူ ဖြစ်၍ စာပေသမားတို့၏ ဘဝကို သိပြီးဖြစ်၏၊ ထို့ကြောင့် မည်သို့သော အခြေအနေနှင့် ကြုံရ ကြုံရ ကျေနပ်ပုံရသည်၊ ဤသို့ဖြင့် ဝန်ကြီးချုပ်သည် ဆရာတော်နှင့် ယခုမှ ကြုံတွေ့ရသော်လည်း ရင်းနှီးပြီးသားကဲ့သို့ လျှောက်ထား ပြောဆို ဆွေးနွေးနေကြသည်။

ဆွေးနွေးသော အကြောင်းအရာများမှာ ဦးနုသည် ဝန်ကြီးချုပ် ဖြစ်စဖြစ်၍ မြန်မာနိုင်ငံကို မည်သို့မည်ပုံ တိုးတက်အောင် ထူထောင်မည်, ကြိုးစားမည်ဟု ပြောဆို လျှောက်ထားသလို ဆရာတော်ကလည်း အသစ်ထူထောင်မည့် မြန်မာနိုင်ငံတွင် သာသနာတော်ကို ပြုပြင်၍ "သန့်စင်သော သာသနာဖြင့် အထွတ်တင်မည်, ဒါမှ ကမ္ဘာ့အလယ်တွင် ဝင့်ထည်၍ တင့်တယ်မည်"ဟု အားရပါးရ ပြောဆိုကြကာ နှစ်ဦးလုံး ကြည်နူးဝမ်းမြောက်နေကြသည်ဟု သိရ၏။

# စာရိတ္တတွေအတွက် ရဟန်းသံဃာများရဲ့ အင်အားကို အသုံးချသင့်

## သမ္မတကြီးစပ်ရှေသိုက်

မြန်မာပြည် လွတ်လပ်ရေးရပြီး နောက်ပိုင်းတွင် အဘက်ဘက်မှ ပြုပြင်ရေးများ ကြိုးစားကြစဉ်က ဖြစ်၏၊ အချိန်အားဖြင့် ၁၃၁၂ ခုနှစ်က ဖြစ်သည်၊ တိုင်းသူပြည်သားများ စာရိတ္တ ကောင်းမွန်ရေး အတွက် ဆွေးနွေး တိုင်ပင်ကြ၏၊ နည်းလမ်း ရှာဖွေကြ၏၊ ထိုမှ အကြံဉာဏ်ရ၍ စာသင်ကျောင်းများ၌ မူလတန်းမှစပြီး ဗုဒ္ဓဘာသာယဉ်ကျေးမှုသင်ခန်းစာများကို သင်ကြားပေးရန် ဆုံးဖြတ်ကြသည်၊ ထို အစီအစဉ်အရ သင်ရိုးညွှန်းတမ်းများ ရရှိရေး, သင်ကြားရန် စာအုပ်များ ရရှိရေးအတွက် ဆရာတော် အရှင် ဇနကာဘိဝံသကို အစိုးရပိုင်းက ရန်ကုန်သို့ ပင့်ကြ၏။

ထို့ကြောင့် ရန်ကုန်သို့ ကြွရသည်၊ အစည်းအဝေးမှ "ဗုဒ္ဓဘာသာလက်စွဲစာအုပ် များရေးသား ပေးပါရန်"ဆရာတော်အား တောင်းပန်ကြ၏၊ တာဝန်လွှဲကြသည်။

ထိုအချိန်က ဖြစ်၏, သမ္မတကြီး စပ်ရွှေသိုက်က "ဆရာတော် အရှင်ဇနကာဘိဝံသကို ဖူးတွေ့လိုပါသည်, ပင့်ပေးပါ"ဟူ၍ ဆိုလာသောကြောင့် သမ္မတအိမ်တော် (ယခင်က ဘုရင်ခံနေသော အိမ်တော်ကြီး)သို့ ပင့်ပေးကြရ၏၊ ဆရာတော်သည် လိုက်ပါကြွရောက် ချီးမြှောက်တော်မူရသည်၊ ထိုစဉ်က စာပုံနှိပ်တိုက်ဝန် ဦးဘကျော်နှင့် ဒကာထိန်ဝင်းတို့က နောက်ပါတပည့်များအဖြစ် လိုက်ပါကြရ၏၊ သမ္မတအိမ်တော်ကြီးသို့ ရောက်သောအခါ ဓာတ်လှေကားဖြင့် အပေါ်ဆုံးထပ်သို့ ပင့်သွားကြ၏၊ အပေါ်ဆုံးထပ်တွင် သမ္မတကြီး စပ်ရွှေသိုက်က ဝမ်းသာကြည်နူးစွာဖြင့် ဆီးကြိုပြီးလျှင် ဆရာတော်အား လေးစားပျပ်ဝပ်စွာ ဦးညွှတ်၍ အားရပါးရ ကန်တော့ရှာသည်။



**သမ္မတကြီးစပ်ရွှေသိုက်**

## ရဟန်းတို့အင်အားကို အသုံးချဖို့လိုအပ်

ထို့နောက် ... သာသနာရေး, ဘာသာရေး အကြောင်းအရာများကို လျှောက်ထား၏၊ ဆရာတော်ကလည်း ပစ္စက္ခ ဖြစ်ပျက်နေသမျှ အခြေအနေတို့ကို ပြန်လည် မိန့်ကြားကာ အားလုံးကို ပြုပြင်ရမည်ဖြစ်ကြောင်း, ပြုပြင်လျှင် ဘာမဆို ဖြစ်နိုင်သည်ဟု မိန့်ကြားရာ သမ္မတကြီးစပ်ရွှေသိုက်က...

"တပည့်တော်တို့ ရှမ်းပြည်ဘက်မှာ 'တစ်ပဲရလို့ တစ်မူး လှူ, တို့ရှမ်းတောင်သူ, တူနိုင်ရိုးလား'နှင့် ဆိုနေကြပြီး အလှူအတန်းတွေမှာ စည်းမရှိ ကမ်းမရှိ ဖြစ်နေကြပါတယ်၊ ဒါကြောင့်လဲ လူတွေဟာ နာလန်မထူနိုင်အောင် ဖြစ်နေကြပါတယ်ဘုရား၊ အခုဟာက စည်းမဲ့ကမ်းမဲ့ ဖြစ်နေကြလို့ မွဲနေကြတာပါ၊ ဒါကို လမ်းမှန်ညွှန်ကြားနိုင်မည့်သူ လိုနေတယ်ဘုရား၊ အမှန်က စည်းနဲ့ကမ်းနဲ့ လှူကြရင် မမွဲနိုင်ပါဘူး၊ လှူလို့ မမွဲနိုင်ဘူးဆိုတာလဲ ယုံကြည်ပါတယ်ဘုရား၊ တပည့်တော်တို့ကိုယ်တိုင် သမ္မတနေရာ ယူထားနေရတော့ အစစအရာရာ လမ်းမှန်အတိုင်း ဖြစ်စေချင်တယ်ဘုရား"။

သမ္မတကြီးသည် သူ့ရင်ထဲ ရှိသမျှ ဖွင့်အန်လျှောက်ထားနေတော့သည်၊ ဆရာတော်ကလည်း ပြုပြင်ရေးတွင် ဖြစ်နိုင်မည့် နည်းလမ်းများကို ပြန်လည် မိန့်ကြားတော်မူ၏။

"ယခုလို မြန်မာနိုင်ငံတော်ကို အဘက်ဘက်က ပြုပြင်နေတဲ့ အချိန်မှာ တစ်ဖက်က လူအားတွေ ငွေအားတွေနှင့် တိုင်းပြည်ကို ကာကွယ်, တိုင်းပြည်ရဲ့ စီးပွားရေး ကြီးပွားရေး, တိုင်းပြည်ရဲ့ တိုးတက်ရေး, တိုင်းပြည်ရဲ့ လူမှုရေးတွေကို ဆောင်ရွက်နေသလို တစ်ဖက်က ဘာသာရေးပိုင်းဆိုင်ရာတွေအတွက်လဲ လမ်းမှန် ဖြစ်ဖို့ရာ ရဟန်းသံဃာတွေရဲ့ အင်အားများစွာရှိပါတယ်၊ ဘေးဖယ်ထားရင်တော့ ဒီအားတွေ အလကား ဖြစ်ကုန်မှာပေါ့၊ ဝိနည်းတော်နှင့် မဆန့်ကျင်စေဘဲ ဒီအားတွေကို အသုံးချရင် တိုင်းပြည်မှာ အများကြီး အကူအညီတွေ ရနိုင်ပါတယ်၊ ဒီလို ဆောင်ရွက်မယ့် စေတနာရှိတဲ့ ရဟန်းတော်ခပ်ရွယ်ရွယ်တွေလဲ တော်တော်များများ ရှိပါသေးတယ်"။

ဤသို့ စသည်ဖြင့် ဘာသာရေး သာသနာရေး အကြောင်းတွေ ဆွေးနွေးကြ၏၊ အကြံဉာဏ်ချင်း ဖလှယ်ကြ၏၊ ဤသို့ အချိန် အတော်များများ ဆွေးနွေးလျှောက်ထားရင်းက စကားစပ်မိသဖြင့် စစ်အတွင်းက အမိဋ္ဌာန် ဂါထာကလေး တစ်ပုဒ် အကြောင်းကို ရောက်သွားတော့သည်။

## အမိဋ္ဌာန်ပုံချင်း တူညီနေခဲ့၏

သမ္မတကြီးသည် ဘာသာရေး သာသနာရေးကို ယခုမှ စိတ်ဝင်စားသည် မဟုတ်ပါ။ ဒုတိယကမ္ဘာစစ်ကြီးအတွင်းက "ညောင်ရွှေစော်ဘွားကြီး"အဖြစ်နှင့်နေရစဉ်ကပင် စိတ်ဝင်စားခဲ့သူ ဖြစ်၏၊ တတ်အားသမျှလည်း ဆောင်ရွက်ခဲ့သူ ဖြစ်သည်၊ တစ်နေ့တွင် စော်ဘွားကြီးသည် ဤသို့ ကြံမိပါသတဲ့။

"ငါသည်... သာသနာတော်ကို အရာထင်အောင် ပြုဖို့ရန် ကံပါသေးလျှင် ဤလက်နက်ဘေးကြီးမှ လွတ်ပါစေ, သာသနာပြုရန် ကံမပါလျှင်တော့ လွတ်ဖို့ရန် မမျှော်တော့ပါ"ဟူ၍ ဖြစ်၏။

ဤသဘောကို တောင်ကြီးမှာ ရွှေကျောင်ဂိုဏ်းအစည်းအဝေးကြီး ပြုလုပ်စဉ် ကော့ကရိတ်ဆရာတော်ကြီးအား စော်ဘွားကြီးက လျှောက်ထား၍ ဂါထာလေးတစ်ပုဒ် ရေးသားချီးမြှင့်ပါရန် တောင်းပန်ပါသတတ်၊ ဤသည်ကို ကော့ကရိတ်ဆရာတော်ကြီးက တစ်ဖန် အရှင်ဇနကာဘိဝံသကို တောင်းပန်ပြန်သဖြင့် အရှင်ဇနကာဘိဝံသကလည်း မိမိ၏အကြံ အဓိဋ္ဌာန်နှင့် တူနေသောကြောင့် အောက်ပါအဓိဋ္ဌာန်ဂါထာကလေးကို ရေးသားသီကုံးပေးလိုက်လေသည်။

**သစေ အာဒိစ္စဗန္ဓုဿ,**
**ဟောဿံ သာသနကာရကော၊**
**ယုဒ္ဓေ ဘယာ ပမုစ္စေယျာမိ,**
**နော စေ နာမှိ ပမုစ္စကော။**

ဤဂါထာ၏ အနက်မှာ ဤစာအုပ်တစ်နေရာတွင် ရှိပါ၏၊ ပြန်လည် ရှာဖွေ၍ ဖတ်ရှုပါ၊ ထိုစဉ်က စော်ဘွားကြီးမှာ... ဂါထာရော, ချောမောသော အနက်ပါ အလွန်နှစ်ခြိုက် ကြိုက်လှသဖြင့် အရကျက် ပြီးလျှင် ခဏ ခဏ ရွတ်ရင်း အဓိဋ္ဌာန်သည် ဆို၏။

နောက်တွင် ဤဂါထာလေးနှင့် အနက်ကိုပါ ရေးပေးသူမှာ ဆရာတော် အရှင်ဇနကာဘိဝံသ ဖြစ်ကြောင်း စော်ဘွားကြီး သိရသဖြင့် အရှင်ဇနကာဘိဝံသကို မမြင်ရဘဲ အာရုံထဲမှာ စိတ်ကူးဖြင့် ကြည်ညိုနေခဲ့၏၊ ယင်းကြည်ညိုရင်းစွဲဖြင့် ယခုအခါ စော်ဘွားကြီးကလည်း သမ္မတဖြစ်နေခိုက် ဆရာတော် အရှင် ဇနကာဘိဝံသကလည်း ဗုဒ္ဓဘာသာသင်ခန်းစာများ ရေးသားဖို့ရန် ရန်ကုန်သို့ ကြွလာခိုက် ကြုံကြိုက်ကြသဖြင့် ယခုကဲ့သို့ သမ္မတအိမ်တော်သို့ ပင့်၍ ကြည်ညိုရခြင်း ဖြစ်သည် ဟူသတတ်။

## အပြင်ပိုင်းရုပ်ဝတ္ထုမက အတွင်းပိုင်းနာမ်ဝတ္ထုပါ တိုးတက်ဖို့ အလေးထားသင့်

### အကြံပေးအရာရှိ ဦးအုန်း

ဦးအုန်းသည် ဖ. ဆ. ပ. လအစိုးရအဖွဲ့ကြီးကို ခေါင်းဆောင်သော ဝန်ကြီးချုပ် ဦးနု၏ အကြံပေးအရာရှိ ဖြစ်၏၊ တစ်ခါသော် အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်သို့ အသိုက်အဝန်း လေးငါးယောက် ခြံရံ၍ ရောက်လာဖူး၏၊ သာသနာ့ရေးဘက်က စနစ်တကျ ပြုပြင်နေသော ဆရာတော်တစ်ပါးဟု ကျော်ကြား၍လည်း အခြေအနေကို လေ့လာရန် ခရီးကြုံခိုက် ရောက်လာရင်း ရှိ၏၊ ဆရာတော်က ဖော်ရွေစွာ လက်ခံစကားပြောတော်မူသည်၊ ထို့ကြောင့်ပင် ဆရာတော်နှင့်ဆက်ဆံရသူအပေါင်းက "ကျောင်းတိုက်ထဲက မထွက်ချင်, စိတ်ချမ်းသာသည်"ဟု အများအားဖြင့် ဝန်ခံတတ်ကြလေသည်၊ ယခုလည်း အကြံပေးအရာရှိ ဦးအုန်းက "ကြည်နူးလှပါသည်, စိတ်ချမ်းသာလှပါသည်"ဟု ပြောနေလေပြီ။

စကားပြောဆိုကြပြီးနောက် ပြန်ခါနီးတွင် တိတ်ဆိတ်ငြိမ်သက်၍ သန့်ရှင်းသော ကျောင်းတိုက်ကြီး၏ အတွေ့အထိကို ခံစားလိုကြသည့်သဘောပင် ဖြစ်ဟန်ရှိ၏၊ "ကျောင်းတိုက်အတွင်း လှည့်လည်ကြည့်ရှုလိုပါသည်"ဟု ခွင့်ပန်တောင်းဆိုလာကြ၏။

ထို့ကြောင့် ဆရာတော်က လိုက်လံ ပြသပေးရလေသည်၊ တစ်နေရာတွင်... နှစ်ထပ်အုတ်တိုက်တစ်လုံးက ဆောက်လုပ်ပြီးစ ဖြစ်၍ လှလှပပ, သန့်သန့်ရှင်းရှင်း ဝင်းဝင်း စက်စက်နှင့် ကြည့်၍ကောင်းလှ၏၊ ကြည်နူးဖွယ်လည်း ဖြစ်၏။

ထို့ကြောင့် ထို တိုက်ကို ကြည့်၍ အကြံပေးအရာရှိ ဦးအုန်းက...

"ကောင်းလိုက်တာဘုရား, ဒီတိုက်ဆောက်ပုံအချိုးလဲကျ, ပုံလဲလှ, သပ်သပ်ရပ်ရပ်လဲ ရှိလှပါတယ်"ဟူ၍ ချီးမွမ်းလေရာ ဆရာတော် အရှင်ဇနကာဘိဝံသက ချက်ချင်းပင် အောက်ပါအတိုင်းပြန်လည်၍ အမိန့်ရှိလေ၏။



အကြံပေးအရာရှိ ဦးအုန်း

## အတွင်းပိုင်းပါ တိုးတက်ဖို့

"ဒါက ရုပ်ဝတ္ထုပဲဒကာကြီး, ရုပ်ဝတ္ထုဆိုတာပြုပြင်လို့လဲ လွယ်ပါတယ်၊ ဘယ်သူမဆိုလဲ ပြုပြင်နိုင်ပါတယ်၊ ပြုပြင်ရင်လဲ ဖြစ်နိုင်တာချည်းပါပဲ၊ ဒကာကြီးတို့လို ပုဂ္ဂိုလ်ကျတော့ ဒီလို အပြင်ပိုင်းရုပ်ဝတ္ထု တိုးတက်တာလောက်ဖြင့် ကျေနပ်မနေပါနှင့်, အတွင်းပိုင်း နာမ်ဝတ္ထု, အတွင်းပိုင်း နာမ်တရား တိုးတက်လာတာကိုပါ အလေးထားကြရပါမယ်၊ တိုးတက်အောင် ကြိုးစားကြရပါမယ်။

ဒါမှ တိုင်းပြည်ခေါင်းဆောင်တဲ့ ပုဂ္ဂိုလ်တို့ရဲ့ဂုဏ်အင် စုံလင်တယ်လို့ ဆိုရပါမယ်၊ သဘာဝအားဖြင့်လဲ ဒါကမှ အသားပါ။

အတွင်းပိုင်း နာမ်တရား တိုးတက်တယ်ဆိုတာအဝတီမလိုက်စားရဘူး, မတရားဘက် မပါရဘူး၊ ဖြူစင်ဖြောင့်မတ်နေရမယ်၊ အရာရာ တရားမျှတ စွာလုပ်ကိုင်ကြရမယ်၊ ကိုယ်ကျင့်သီလ မြဲရမယ်၊ ထကြွလုံ့လ ဝီရိယရှိရမယ်၊ အများကောင်းကျိုးဆောင်ရွက်လိုတဲ့ စိတ်ဓာတ်ကဲရမယ်၊ တိုင်းသူပြည်သားတို့အပေါ်မှာ ရင်ဝယ်သားကဲ့သို့ သဘောထားနိုင်ရမယ် စတဲ့ အရည်အချင်းတွေကို ပြောတာပါ"ဟူ၍ အမိန့်ရှိလိုက်ရာ အကြံပေးအရာရှိဦးအုန်းမှာ အံ့အားသင့်စွာ ခေါင်းတညိတ်ညိတ်ဖြင့် အမိန့်ရှိချက်ကို လေးနက်ကြည်ဖြူ ခံယူသွားရလေသည်။

## အုတ်ကားသမားနှင့်ဆရာတော်
## ဟန်ကြီးပန်ကြီး မလုပ်တတ်

ဆရာတော် အရှင်ဇနကာဘိဝံသ၏ အလေ့မှာ ဟန်ကြီးပန်ကြီး မလုပ်တတ်, ကိန်းကြီးခန်းကြီး မနေတတ်, ခမ်းခမ်းနားနားနှင့် ဟိတ်မထုတ်တတ်၊ မထုတ်တတ်၍ မဟုတ်, မထုတ်ချင်၍ ဖြစ်သည်၊ ဤကိစ္စမျိုးကိုလည်း သူလည်း မလုပ်ချင်, သူများလုပ်သည်ကိုလည်း ရွံမုန်းတတ်၏။

ထို့ကြောင့် အကြောင်းမသိသောသူတို့က မဟာဂန္ဓာရုံတိုက်သို့ ရောက်လာလျှင် "ဆရာတော်ဆိုတာ ဘယ်ဟာလဲ" လို့ ခွဲခြား၍ မရ ဖြစ်တတ်ကြ၏၊ တပည့်ကြီးများနှင့် အတူတူလို ဖြစ်နေတတ်၏။

ခန္ဓာကိုယ်ပုံပန်းအနေအားဖြင့်လည်း စောစောပိုင်းက သိပ်ပြီး မဝလှ၊ ကျောင်းတိုက်ကြီးများတွင်

ရှိတတ်သည့် လက်ထောက် တပည့်ကြီး ဟန်မျှ လောက်သာ ရှိ၏၊ သင်္ကန်းများကိုလည်း သပ်သပ် ရပ်ရပ် ဝတ်ရုံသည်မှတစ်ပါး အကောင်းစားများကို ဝတ်လေ့မရှိ၊ သာမန် ပိတ်သင်္ကန်းမျှသာ ဝတ်လေ့ ဝတ်ထ ရှိသည်။

မဟာဂန္ဓာရုံကျောင်းတိုက်၏ အလေ့မှာ နေ့ ဆွမ်းစားပြီးလျှင် နေ့သန့်စင်ချိန်အဖြစ် ၁၂ နာရီမှ ၁၂ နာရီခွဲအထိ ဤအတွင်း မည်သည့်စာမျှ မအံရ မကျက်ရဘဲ ငြိမ်သက်စွာ နေခွင့်ပေး၏၊ ထိုအခါ တွင် သံဃာတော်များ အားလုံး ကျောင်းတွင်း၌ ငြိမ်သက်စွာ ကိန်းအောင်း၍ နေတော်မူကြ၏၊ မည်သည့် သံဃာမျှ အရိပ်အယောင် မတွေ့ရ။

## ဆရာတော်ဆိုတာ ဘယ်မှာလဲ

တစ်နေ့သောအခါ ထိုအချိန်မျိုးတွင်မှ အုတ်ကားတစ်စီး ရောက်လာသည်၊ အုတ်တိုက်ဆောက် ရန် မန္တလေးမှ ကျောင်းဒကာက ပို့ခိုင်းလိုက်ခြင်း ဖြစ်၏၊ ဆရာတော်သည် လုံ့လဝီရိယကြီးမားသူ ဖြစ်သည့်အားလျော်စွာ ခေတ္တမျှသာ ကိန်းအောင်း ၍ ကျောင်းတိုက်တွင်းသို့ လှည့်ပတ်နေခိုက် ဖြစ်၏၊ ကားဒရိုင်ဘာနှင့်စပယ်ယာတို့သည် အုတ်ကို မည် သည့် နေရာ၌ ချရမည် မသိ၍ မေးစရာလိုက်၍ ရှာရာ ဆရာတော်ကို သွား၍ တွေ့လေ၏၊ သို့သော် ဆရာတော်မှန်း သူတို့ မသိကြ၊ အနီးသို့ ချဉ်းကပ် သွားကြပြီးလျှင် ...

"ဦးပဉ္စင်း၊ ဒီကျောင်းတိုက်က ဆရာတော် ဘယ်မှာလဲ"

"ဟာ-ဟိုကျောင်းကြီးပေါ်မှာ သီတင်းသုံးတော် မူလို့ ရှိတယ်၊ ဒကာတို့က ဘာလုပ်ချင်လို့လဲ"

"အုတ်တွေကို ဘယ်မှာ ချရမှာလဲလို့ မေးချင် လို့ပါ"

"ဒီလိုဆိုရင် လာ-လာ၊ ဟိုနားမှာ ချရအောင်"

"ဟာ-ကိုယ်တော်နဲ့ မဖြစ်ဘူး၊ တော်ကြာ ဆရာ တော် လာလို့ မကျေနပ်မှဖြင့် နေရာ ထပ်ရွှေ့နေ ရဦးမယ်"

"မရွှေ့ရပါဘူး၊ ဒီကိစ္စအတွက် ဆရာတော်က ကျုပ်ကို အာဏာကုန် လွှဲထားပြီးသားပါ"

ဤသို့ လက်ထောက်တပည့်ကြီး ဟန်မျိုးပြောမှ ဒရိုင်ဘာနှင့် စပယ်ယာတို့သည် ယုံကြည်စွာ လက်ခံ၍ ဆရာတော်ဦးဆောင်ရာသို့ လိုက်ပါလာကြ တော့၏။

ဤအကြောင်းကို နောက်တစ်နေ့ နံနက်ခင်း သံဃာတော်များအား ဩဝါဒပေးရာတွင် ဆရာ တော်က ထည့်သွင်းပြောမှ တသောသောနှင့် ရယ် မောကြရတော့သည်။

ဆရာတော်က ပြန်လည် ရှင်းပြနေသည်၊ "ငါ့ကို တွေ့ရဲ့သားနဲ့ ဆရာတော်ဘယ်မှာလဲ"လို့ မေးက တည်းက ငါ့ကို မသိလို့ပေါ့၊ မသိတဲ့ လူတွေကို ခုမှ ဖြေရှင်းပြနေရရင် ကြာမှာ စိုးလို့ ငါလဲပဲ ဆရာတော် တွေ သီတင်းသုံးတော်မူတတ်ကြတဲ့ အကြီးဆုံး ကျောင်းကြီးကို လက်ညှိုးထိုးပြလိုက်တယ်"တဲ့။

(အမှန်မှာ ဆရာတော် အရှင်ဇနကာဘိဝံသ သည် မည်သည့်အခါတွင်မျှ ထိုကဲ့သို့သော ကျောင်း ကြီး တိုက်ကြီးတွေပေါ်မှာ နေလေ့မရှိ၊ သစ်သား ကျောင်းကလေး ခပ်ရှယ်ရှယ်ပေါ်မှာသာ အမြဲ သီတင်းသုံးတော်မူလေ့ရှိသည်။)

# သောက်ရေအိုး ထမ်းလာသော ကျမ်းပြုကိုယ်တော်

## ကိုယ်ထု ကိုယ်ထ ကိုယ့်ရေ ကိုယ်ခပ်

တစ်ခါတွင်လည်း သီလရှင်အဘွားအိုကြီးတစ် ယောက် ဂန္ဓာရုံသို့ ရောက်လာဖူး၏၊ အချိန်ကား ဂျပန်ခေတ်၊ ဖုံးသံ အဒြောက်သံ စက်သေနတ်သံ များ ထူပြောစဉ်က ဖြစ်သည်၊ မန္တလေးနှင့် အမရ ပူရကို ခဏ ခဏ လေယာဉ်ဝဲ၍ စက်သေနတ်ဖြင့် ပစ်ခတ်စ ပြုလာပြီ၊ ပထမသော် ဆရာတော်သည် တပည့်လေးငါးခြောက်ပါးမျှဖြင့် ပေတေ၍ နေသေး ၏၊ နောက်ပိုင်းတွင် ပို၍ ပို၍ များလာကာ ဗုံးပါ ချတော့၏၊ အောက်မှလည်း အမြောက်ဖြင့် ပြန် လည် ပစ်ခတ်သံများ ကြားနေရသည်။

ထို့ကြောင့် ဆိုင်ရာမိဘများ စိတ်မချရမည်စိုး၍ တပည့်များအားလုံးကို ကိုယ့်ဒေသကိုယ် ပြန်ပြီး လွှတ်လိုက်သည်။

တပည့်များကို ပြန်၍ လွှတ်ပြီးနောက် ဆရာတော်သည် ကပ္ပိယ ဒကာ မောင်လှမောင်နှင့် ကျောင်းတိုက်ထဲမှာ နေခဲ့ကြ၏၊ မောင်လှမောင် ချက်ပေးသော ခရမ်းချဉ်သီးဟင်းဖြင့် နေ့စဉ်နေ့တိုင်း ကျေနပ်ခဲ့ရသည်၊ ကိုယ့်ရေ ကိုယ်ခပ်၊ ကိုယ့်အဝတ် ကိုယ်ဖွပ်, ကိုယ့်ကျောင်း ကိုယ်ရှင်း၊ ကိုယ့်တလင်း ကိုယ်လှည်း၊ အရာရာတွင် ကိုယ့်ထူ ကိုယ်ထစနစ်ဖြင့် နေခဲ့ရ၏။

တစ်နေ့သော နေ့လယ်ခင်းတွင် ကျောင်းတိုက်မြောက်ဖျား မိမိနေသော ကျောင်းကလေးမှ ကျောင်းတိုက်တောင်ဖျားရှိ ရေတွင်းကြီးသို့ သွား၍ ရေချိုးခဲ့၏၊ အပြန်တွင် မိမိသောက်ရန် ရေအိုးကလေးကို ပခုံးပေါ် ထမ်း, ရေသနုပ် (ရေလဲ) သက်န်းအစိုကလေးကို ညှစ်၍ ပခုံးတစ်ဖက်ပေါ်တွင် တင်, သင်းပိုင် ခပ်တိုတိုဖြင့် မိမိ နေမြဲ ကျောင်းကလေးဆီသို့ ပြန်လာခဲ့သည်။

## မယုံနိုင်သော အဘွားသီလ

ထိုအချိန်တွင် သီလရှင် အဘွားအိုတစ်ယောက် ကျောင်းဝင်းထဲသို့ ဝင်လာနေ၏၊ ချွေးသီး ချွေးပေါက်များဖြင့် ခရီးပန်းလာပုံလည်း ပေါ်နေသည်၊ အသက်အားဖြင့် ၇၀ ကျော်ခန့်, တဖြည်းဖြည်း အနားသို့ ရောက်လာ၏၊ ပြီးလျှင် သီလရှင် အဘွားကြီးက...

"မောင်ပဥ္စင်း, မောင်ပဥ္စင်း...ဒီမှာ ဆရာတော် ဦးဇနကဆိုတာ ရှိပါသလား"

"ရှိပါတယ် ဒကာမကြီး" (ခေတ္တတန့်ရပ်၍ ဖြေရသည်။)

"သူဘယ်မှာလဲ, ဘယ်ကျောင်းကို သွားရမလဲ"

"ဒီမှာလေ, ကျုပ်ပဲဟာ"

"မဟုတ်ဘူး ကိုယ်တော်ရဲ့, ဆရာတော်ဦးဇနကကို မေးတာ"

"ဟုတ်ပါတယ် ဒကာမကြီးရဲ့, ကျုပ်ပါပဲ"

"ကိုယ်တော် ဘွဲ့တူ ဖြစ်နေပြီထင်တယ်၊ တပည့်တော်မ ပြောတာက ကျမ်းစာအုပ်တွေ အများကြီး ရေးတဲ့ ဆရာတော် ဦးဇနကကို ပြောတာ"

"ဟုတ်ပါတယ် ဒကာမကြီးရ, ကျုပ်ပါပဲ"

သီလရှင်အဘွားကြီးက မယုံမရဲဖြင့် ဆရာတော်အရှင်ဇနကာဘိဝံသကို ခြေဆုံးခေါင်းဆုံး အပြန် ပြန် အလှန်လှန် ကြည့်နေပြန်သည်၊ သင်းပိုင် ခါး ဖြတ်ပတ်၍ ရေလဲသင်းပိုင်ညှစ်ပြီးကို ပခုံးပေါ် တင်၍ သောက်ရေအိုးကို ထမ်း၍ လာသည်ကို "ကျမ်းပြုပုဂ္ဂိုလ်ကြီး"ဟု အဘွားအိုက မထင်မြင်၊ သို့နှင့်...

"နေပါဦး ကိုယ်တော်, အခု ဒီကျောင်းတိုက်မှာ တခြား ကိုယ်တော်တွေ ရှိသေးသလား"

"မရှိဘူး ဒကာမကြီးရဲ့, ရဟန်းဆိုလို့ ကု ်တစ်ပါးတည်းပဲ"

"ဩော်-ဩော်, ဒါဖြင့် ကြွပါ ကိုယ်တော် ရှေ့က, တပည့်တော်မ ဖူးချင်လို့ လာတာပါ"

## ကျမ်းပြုပုဂ္ဂိုလ်ပုံ ပျောက်နေ၍

ဆရာတော်သည် အဘွားအိုသီလရှင်က အဆင့်ဆင့် မေးမြန်းနေသဖြင့် မယုံကြည်မှန်း သိ၏၊ ဤသို့ မယုံကြည်သည်ကိုပင် သဘောကျနေမိသည်၊ အမေအရွယ် ဖြစ်၍လည်း, ဆရာတော်က အမေလို သဘောထားပြီး ဝမ်းထဲက ပြုံးနေမိ၏၊ အသုံးကိုလည်း အဘွားအို မယုံကြည်မှုအလိုက် "ကျုပ်"ဟုပင် သုံးလိုက်၏၊ သုံးနေကျ မဟုတ်, ကျမ်းစာတွေ ပြုစုနေသဖြင့် အပြင်ဘက်မှာ နာမည်ကြီးနေသလောက် အတွင်းရောက်သောအခါ ထည်ထည်ဝါဝါ ဟိတ်ဟန်မကြီးဘဲ ကျမ်းပြုပုဂ္ဂိုလ်ပုံ ပျောက်နေသော မိမိအဖြစ်ကိုလည်း ပြန်လည် သဘောကျနေမိသည် ဟူ၏။

ဆရာတော်နေသော ကျောင်းကလေးသို့... ရောက်သောအခါ အဘွားသီလရှင်က အားရပါးရ

ဦးသုံးကြိမ်ချ၍ တကူးတက ယူလာရှာသော အထုပ်ကလေးကို ဖြည်၏၊ အထုပ်တွင်းပါ ဘီစကွတ်မုန့်ခြောက်ထုပ်ကလေးတစ်ထုပ်, လိမ္မော်သီးတစ်လုံးတို့ကို ထုတ်၍ လေးလေးမြတ်မြတ် လှူရှာသည်၊ သူ့မှာ မည်သည့်နေရာက ရလာခဲ့သည် မသိ, မစားရက် မသောက်ရက် သိမ်းထားပြီး ကျမ်းပြုပုဂ္ဂိုလ်ကြီးကို လာ၍ လှူခြင်းဖြစ်သည်၊ ဆရာတော်အရှင်ဇနကာဘိဝံသ၏ရတနာ့ဂုဏ်ရည်တို့, ကိုယ်ကျင့်အဘိဓမ္မာတို့ကို ဖတ်၍ အဘွားသီလရှင် ကြည်ညိုနေခဲ့ခြင်း ဖြစ်သည်။

အဘွားသီလရှင်သည် စစ်ကိုင်းတောင်ရိုးမှ မဟုတ်၊ စစ်ကိုင်းတောင်ရိုးမှဆိုလျှင် ဆရာတော်ကို အများအားဖြင့် မြင်ဖူးကြ သိဖူးကြ၏၊ ဤအခြေအနေကို ဆရာတော်က ရိပ်မိ၍ မေးကြည့်သောအခါ နယ်မှဖြစ်နေသည်၊ "ဆရာတော့်စာပေတွေကို ဖတ်ရ၍ ကြည်ညို လွန်းလို့ မရောက်ရောက်အောင် မေးစမ်းလာခဲ့ခြင်းဖြစ်သည်"ဟု ဆိုသည်၊ ထို့နောက် ဆရာတော်က အဘွားနှင့်လိုက်သော တရားတို့ကို ဟောပြသဖြင့် သဘောကျနှစ်ခြိုက်၍ ပိုမို ကြည်ညို သွားပြန်တော့သည်။

## ဇေတဝန်ဆရာတော်ကြီး၏ ကြက်အုပ်နှစ်အုပ်ဥပမာ

### နိုင်အောင်သာ ခွပ်ပေရော့

(ဆရာတော်အရှင်ဇနကာဘိဝံသ လောင်းလျာ) အရှင်ဇနကသည် ပခုက္ကူအလယ်တိုက်ကြီးတွင် စာချဖြစ်ပြီးနောက် မန္တလေးမြို့တွင် နာမည်ကြီးသော သကျသီဟစာမေးပွဲကို ဝင်ရောက်ဖြေဆိုရန် စစ်ကိုင်းသို့ ပြန်ခဲ့၏၊ စစ်ကိုင်းတောင်ရိုးတွင် ခေတ္တနေထိုင်ခိုက် သီလရှင်ချောင်တစ်ခုမှ "အလင်္ကာသဘောကလေးတွေ ပြောပေးပါဦး"ဆို၍ သီလရှင်ကလေးတို့ကို ပြောပေးနေရ၏၊ ထိုအချိန်တွင်ပင် နောက်ထပ်ချောင်တစ်ခုမှ "သဒ္ဒါကလေး ဘာလေး ရှင်းပြပါဦး"ဆိုပြန်သဖြင့် သီလရှင်ကလေးများအား ရှင်းပြနေရပြန်၏၊ အကူအညီ တောင်းလာလျှင် အားနာတတ်သည် မဟုတ်လော၊ ဟိုဘက်ချောင် ကူးလိုက်, ဒီဘက်ချောင် သန်းလိုက်နှင့် သွားလာနေသည်ကို အချို့ကလည်း မျက်စိစပါးမွေးစူးဟန်တူ၏၊ ဤသို့ဖြင့် ဆရာတော်ကြီးများ နား့သို့ ပေါက်သွားလေပြီ။

ဆရာတော်ကြီးများသည် အရှင်ဇနကကို စာတော်သူ (ပိဋကတ်ကျွမ်းကျင်သူ)ဖြစ်၍ ချစ်ကြ၏၊ မြတ်နိုးကြ၏၊ တန်ဖိုးထားကြ၏၊ လိုလည်း လိုလားတော်မူကြသည်၊ ထို့ကြောင့် ကတိမ်းကပါး ဖြစ်မည်လည်း စိုးတော်မူကြဟန် ရှိ၏၊ သို့သော် အရှင်ဇနကကား ကိုယ့်ကိုယ်ကို ထိန်းနိုင်သူဖြစ်၍ ဘာမျှမဖြစ်ပါ၊ တစ်နေ့တွင် စစ်ကိုင်းတောင်ရိုး ဇေတဝန်ဆရာတော်ဘုရားကြီးနှင့် တွေ့ဆုံခွင့် ကြုံရလေရာ ဆရာတော်ဘုရားကြီးက မိန့်တော်မူ၏။

**ဆရာတော်ကြီး။** ။ မောင်ဇနက ... မင်း-သီလရှင်ကလေးတွေကို စာချပေးနေဆို။

**အရှင်ဇနက** ။ ။ မှန်ပါ အရှင်ဘုရား။

**ဆရာတော်ကြီး။** ။ အေးဗျ, တို့ တစ်ခုပြောချင်တယ်။

**အရှင်ဇနက** ။ ။ မှန်ပါ, အမိန့်ရှိပါဘုရား။

**ဆရာတော်ကြီး။** ။ တို့နေတဲ့ ချောင်နားမှာ တစ်ခါတုန်းက တောကြက်အုပ် နှစ်အုပ်လာဆုံကြတယ်။

**အရှင်ဇနက** ။ ။ မှန်ပါ, အရှင်ဘုရား။

**ဆရာတော်ကြီး။** ။ ဒီတော့ ဟိုဘက်ခေါင်းဆောင်, ဒီဘက်ခေါင်းဆောင် ကြက်ဖချင်း ခွပ်ကြတာပေါ့။

**အရှင်ဇနက** ။ ။ မှန်ပါ, ခွပ်တတ်ကြပါတယ်ဘုရား။

**ဆရာတော်ကြီး။** ။ အဲလို ခွပ်ကြတော့ ကြက်မတွေက ဝိုင်းကြည့်နေကြတယ်ကွယ်၊ မကူကြဘူး။

**အရှင်ဇနက** ။ ။ မှန်ပါ, အရှင်ဘုရား။

**ဆရာတော်ကြီး။** ။ အဲလိုနှင့် ကြာတော့ ဒဏ်ရာဒဏ်ချက်တွေလဲထိ, မောလဲ မောတော့ ကြက်တစ်ကောင်က ထွက်ပြေးရော။

**အရှင်ဇနက** ။ ။မှန်ပါ, အရှင်ဘုရား၊ ရှုံးတာကိုး။

**ဆရာတော်ကြီး**။ ။အဲလိုထွက်ပြေးတော့ ရှုံးတဲ့ဘက်က ကြက်မတွေက ကိုယ့်ခေါင်းဆောင် ရှိရာ ရှုံးတဲ့ ကြက်ဖနောက်ကို လိုက်ပြေးကြမလား အောက်မေ့တယ်, မဟုတ်ဘူးဗျာ၊ နိုင်တဲ့ ကြက်ဖ နောက်ကို ပေါင်းပြီး ကြက်မ နှစ်အုပ်လုံး လိုက်သွားကြလေရဲ့။

**အရှင်ဇနက** ။ ။မှန်ပါ, အရှင်ဘုရား၊ (အံ့အားသင့်စွာဖြင့်)

**ဆရာတော်ကြီး**။ ။အေး-အဲဒီလိုပဲ, မင်းလဲ နိုင်အောင်သာ ခွပ်မယ်ကြံပေရော့မောင်ရေ့, ရှုံးရင်တော့ မင့်နောက် တစ်ကောင်တစ်မြီးမှ ပါမှာမဟုတ်ဘူး။

ဤသို့ အမိန့်ရှိလိုက်ရာ အရှင်ဇနကမှာ ရှက်လွန်း၍ အသားများပင် နီရဲပူထူသွားအောင် ဖြစ်ရပါသတတ်၊ "အဲဒီတုန်းက ငါရှက်လိုက်တာကွာ"ဟု ပြန်လည် အမိန့်ရှိတော်မူ၏။

**(၁၃၃၂ ခုနှစ် မုန်းဆုတ် ၅ ရက်နေ့ ဩဝါဒမှ)**

## ခေါင်းဆောင်သစ်ရှာကြသတဲ့

ဆိုလိုသည်မှာ အရှင်ဇနကသာ မသိခြင်း ဖြစ်လေသည်၊ မူရင်းအခြေခံမှာ အရှင်ဇနက မရောက်ခင်ကပင် ချောင်တစ်ချောင်၌ သီလရှင်ကလေးတွေကို စာပြပေးနေသော ကိုယ်တော်တစ်ပါးရှိနေနှင့်၏၊ ထိုအုပ်စုသို့ အခြားအုပ်စုတစ်ခုမှ သွား၍ စာလိုက်ရာ မကြည်ဖြူသော အမူအရာကို ပြသဖြင့် သူတို့ကလည်း အရှင်ဇနကကို ခေါင်းဆောင်သစ် ရှာကြခြင်း ဖြစ်သတတ်၊ ... ဤသဘောများကို စောစောက အရှင်ဇနက မသိ၊ ဆရာတော်ကြီးများက သိထားပြီးဖြစ်၍ ကြက်အုပ်နှစ်အုပ်ဖြင့် ဥပမာပေးကာ မိန့်ကြားလိုက်ခြင်း ဖြစ်ပေသည်၊ ထို့ကြောင့် အရှင်ဇနကလည်း ဆရာတော်ကြီးများ၏ ဩဝါဒဖြင့် ကိုယ်ရှိန်သတ်၍ ရပ်လိုက်နိုင်ခြင်း ဖြစ်လေသတတ်၊ (အရှင်ဇနကနှင့် နောက်နောက်ပုဂ္ဂိုလ်များအတွက် တန်ဖိုးကြီးမားသော ဩဝါဒကထာပေတကား။)

# ဆရာတော်နှင့် စာရေးဆရာ, သတင်းစာဆရာများ

## စာအုပ်တွေက မိတ်ဆက်ပေးသလို

ဆရာတော် အရှင်ဇနကာဘိဝံသသည် သံဃာတော်များအား စာပေပို့ချရုံသာမက ကျမ်းစာများကိုပါ ရေးသားသူဖြစ်သဖြင့် စာပေလောကအသိုက်အဝန်းကလည်းသိကြ၏၊ ရဟန်းသံဃာများအတွက် ရေးသားပေးသော ဘာသာဋီကာကျမ်းစာများက သံဃာတော်များလောကနှင့် ဆရာတော် အရှင်ဇနကာဘိဝံသကို မိတ်ဆက်ပေးကြသလို လူပုဂ္ဂိုလ်တို့အတွက် ရေးသားပေးသော ကျမ်းစာတို့ကလည်း လူပုဂ္ဂိုလ်တို့နှင့် ဆရာတော့်ကို မိတ်ဆက်ပေးကြသည်၊ ဤနည်းအားဖြင့် လူရော ရှင်ပါ အရှင် ဇနကာဘိဝံသကို သိကြ, ခင်ကြ, ကျွမ်းဝင်ကြတော့၏။

ထို့ကြောင့် လူပုဂ္ဂိုလ်စာရေးဆရာတို့က ဆရာတော် အရှင်ဇနကာဘိဝံသကို အစဉ်အလာ ဆရာတော် မထေရ်မြတ် တစ်ပါးအဖြစ်အပြင် စာရေးဆရာ ပုဂ္ဂိုလ်တစ်ပါးအဖြစ်လည်း မြင်ကြသည်၊ ခင်ကြသည်၊ မြတ်နိုးကြသည်၊ ရိုသေကြသည်၊ သို့အတွက် အားလပ်သောအခါ (သို့မဟုတ်) အခွင့်ကြုံသောအခါတို့၌ ဆရာတော့်ထံကို ရောက်ရောက်လာတတ်ကြလေ၏၊ ဆရာတော်ကလည်း ဖော်ဖော်ရွေရွေ ကျေကျေနပ်နပ် လက်ခံစကားပြောတော်မူတတ်သည်၊ စာရေးဆရာတို့ ရောက်လာကြလျှင် လူ့လောကမှ ဗဟုသုတတို့ကို သူတို့တွေ့သမျှ ကြုံသမျှ လျှောက်ထားကြ၏၊ ဆရာတော်ကလည်း လက်ခံနားထောင်တော်မူသည်၊ သူတို့အမြင်တို့ကို တင်ပြကြ၏၊ ဆရာတော့် အမြင်ကိုလည်း စုံစမ်းကြသည်၊ ဤသို့သော အခါမျိုးတွင် ဆရာတော်သည် ညဉ့်နက်အောင်ပင် လက်ခံစကားပြောတော်မူတတ်၏။

## ဆရာကြီးရွှေဥဒေါင်း



ဆရာကြီးရွှေဥဒေါင်း

စာရေးဆရာ, သတင်းစာဆရာ ဆရာကြီးရွှေဥဒေါင်းသည် သူ့ခေတ် သူ့ကာလ သူတို့အသိုက်အဝန်းတွင် သူအကြီးဆုံး ဖြစ်၏၊ စာရေးဆရာ အများက သူ့ကို "အဘိုး"အရာ ထားကြ၏၊ ထားသည့်အလျောက် သူကလည်း သူထင်ရာ ကျဲတတ်သည်၊ သူပြောတာ ဟုတ်ရမှ, သူလုပ်တာ မှန်ရမှဟူ၍ အစွဲသန်နေတတ်သည်၊ ဆရာကြီးသည် မန္တလေး လူထုသတင်းစာတွင် အယ်ဒီတာလုပ်ခဲ့၏၊ အနည်းငယ် အားလပ်ခွင့်ရသော အချိန်များတွင် အမရပူရ မဟာဂန္ဓာရုံတိုက်သို့ ရောက်လာတတ်သည်၊ ထိုအခါများတွင် ဆရာတော်က အချိန်ပေးကာ လက်ခံ ဆွေးနွေး စကားပြောတတ်လေသည်။

ဆရာကြီးသည် အဖော်နှစ်ယောက်သုံးယောက်ဖြင့် ညဥ့်အိပ်ညဥ့်နေ အေးအေးလူလူ လာရောက်ပြီးလျှင် ဆရာတော်နှင့် အားရပါးရ စကားပြောတတ်၏၊ ဆရာကြီးက နယ်စုံ အရပ်စုံ ရောက်သည့်အတိုင်း တွေ့ကြုံရသမျှတို့ကို ပြန်လည်ဖောက်သည်ချကာ ဆရာတော်၏ ကျောင်းကလေးပေါ်တွင် ညဥ့်နက်သန်းခေါင် ရယ်မောရင်း စကားပြောနေတတ်လေသည်၊ ဆရာတော်ကလည်း သူပြောသမျှကို သည်းခံ နားထောင်ရှာ၏၊ နောက်ပိုင်းတွင်မူ လုပ်ငန်းကိစ္စ များ၍ နှစ်အတန် ကြာအောင်ပင် ဆရာတော့်ထံသို့ မရောက်နိုင်ဘဲ ကွာလှမ်းသွားခဲ့ရလေသည်။

တော်လှန်ရေးအစိုးရ တက်လာပြီးနောက်... လုပ်သားပြည်သူ့နေ့စဉ်သတင်းစာကို ထုတ်ဝေသောအခါ ဆရာကြီး ရွှေဥဒေါင်းသည် လုပ်သားပြည်သူ့နေ့စဉ်တွင် အယ်ဒီတာချုပ်ကြီး သွား၍ ဖြစ်လေသည်၊ ထိုသို့ နေရာဌာန ဝေးကွာ၍ သွားသောအခါ ပို၍ပင် မရောက်နိုင်အောင် ဖြစ်တော့သည်။

## ဗုဒ္ဓကျောင်းတော်ကြီးလို

၁၉၆၇ ခုနှစ်လောက်က ဖြစ်၏၊ ဆရာကြီး၏ တပည့် စာရေးဆရာ ငွေဥဒေါင်းက ရှုမဝမဂ္ဂဇင်းတွင် စာဝက်ဘာအခန်းကဏ္ဍကို ရေးသားလျက်ရှိသည်၊ ထိုတွင် စာရေးဆရာ ငွေဥဒေါင်းက အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်ကြီးကို ဘုရားရှင်လက်ထက်က ဗုဒ္ဓကျောင်းတော်ကြီးနှင့် နှိုင်းယှဉ်အောက်ပါအတိုင်း ရေးလိုက်လေသည်။

"ဗုဒ္ဓ၏ သရက်ဥယျာဉ်ကျောင်းတော်သို့ စိတ်နှလုံးနောက်ကျိနေသော အဇာတသတ်မင်း ရောက်ရှိသွားသောအခါ တိတ်ဆိတ်ငြိမ်သက်၍ သန့်ရှင်းကြည်လင်သော အတွေ့အထိကြောင့် စိတ်သက်သာရာရခြင်း, ငြိမ်းချမ်းခြင်းအရသာကို ခံစားရသကဲ့သို့ မဟာဂန္ဓာရုံကျောင်းတိုက်ကြီးအတွင်းသို့ ဝင်လိုက်လျှင်လည်း ထိုခံစားချက်မျိုး ခံစားရသည်ဟူ၍လည်းကောင်း, နှလုံးမွေ့လျော် ပျော်ဖွယ်ရာကောင်းသော ကျောင်းတိုက်မှာ အမရပူရမြို့က မဟာဂန္ဓာရုံကျောင်းတိုက်သာလျှင် ဖြစ်၏"ဟူ၍လည်းကောင်း... ငွေဥဒေါင်းက ရေးလေသည်။

ထို့ပြင်လည်း ဆရာကြီး ရွှေဥဒေါင်းအား မဟာဂန္ဓာရုံကျောင်းတိုက်ကြီး၏ အကြောင်းကို ခဏ ခဏ ပြောပြသော ဟူ၏၊ ထိုအခါ ဆရာကြီးက "ကဲ- မောင်ရင်, ဒါလောက်တောင် အပြော ကောင်းလှတာ မနက်ဖြန် သွားကြမယ်၊ သွားဖို့ လာဖို့ မောင်ရင်ပဲ စီစဉ်ပါ"။

## တိတ်ဆိတ်အေးဆေး ငြိမ်းချမ်းလှပါဘိ

ဤသို့ ပြောဆိုတိုင်ပင်ကြပြီးလျှင် ရွှေဥဒေါင်း နှင့် ငွေဥဒေါင်း ဆရာတပည့်နှစ်ဦးတို့သည် အမရ ပူရမြို့ မဟာဂန္ဓာရုံကျောင်းတိုက်သို့ ဆိုက်ဆိုက် မြိုက်မြိုက် ရောက်လာကြတော့၏၊ အမှန်မှာ ဆရာ ကြီး ရွှေဥဒေါင်းသည် မဟာဂန္ဓာရုံကျောင်းတိုက် နှင့် ကွဲကွာခဲ့သည်မှာ အတော်ကြာပြီဖြစ်၍ လွမ်း ဆွတ်သယောင်လည်း ဖြစ်နေခဲ့သည် ဟူ၏၊ ထို့ ကြောင့် လာဖြစ်အောင် လာခဲ့ခြင်း ဖြစ်လေသည်။

ဟုတ်ပါသည်၊ စာရေးဆရာ ငွေဥဒေါင်း ပြော သလိုပင် မဟာဂန္ဓာရုံကျောင်းတိုက်ကြီးကလည်း ယခင်တုန်းက မိမိရောက်ဖူးစဉ်က အခြေအနေမျိုး မဟုတ်တော့ပါ၊ ယခု တစ်မူထူးခြား၍ အံ့အားသင့် ဖွယ် ဖြစ်နေပါတော့၏၊ ကျောင်းတလင်း သန့်ရှင်း၏၊ တိတ်ဆိတ်ငြိမ်းချမ်းသော ဥယျာဉ်ကြီးတစ်ခု ဖြစ်နေပါ၏၊ ထို့ကြောင့်ပင် ငွေဥဒေါင်းက ဘုရား ရှင် သီတင်းသုံးတော်မူရာ ဇေတဝန်၏ သရက်ဥယျာဉ် ကျောင်းတိုက်ကြီးနှင့် ပုံနှိုင်းခြင်း ဖြစ်ပေသည်ဟု ဆရာကြီးရွှေဥဒေါင်းက ဝန်ခံရပါသတဲ့။

ထို့နောက် ဆရာတော်ထံသို့ ချဉ်းကပ်သွားကြ ၍ ဆရာတော်နှင့် ဝမ်းသာအယ်လဲ နှုတ်ဆက်ပြော ဆိုတော့သည်၊ ဆရာတော်ထံသို့ ရောက်တိုင်း စာပေအရေးအသားနှင့်ပတ်သက်၍လည်းကောင်း၊ မေတ္တာသဘောတရားနှင့်ပတ်သက်၍လည်းကောင်း၊ အနတ္တဝါဒနှင့်ပတ်သက်၍လည်းကောင်း လျှောက် ထားကာ အများအားဖြင့် ဆွေးနွေးတတ်ကြလေ သည်။

## မိမိထက်သာတာ တစ်ဦးတည်းရှိ

ဤနည်းအားဖြင့် ဆရာကြီးရွှေဥဒေါင်းသည် ဆရာတော်ထံသို့ မကြာ မကြာ ရောက်လာတတ်၏၊ ဆရာတော်ကို ယုံကြည်၊ အယူအဆ၊ သဘာဝပိုင်း နှင့် ပတ်သက်၍လည်း ရိုသေပြန်လေသည်၊ အကြိမ် ကြိမ် အဖန်ဖန် ဆွေးနွေးခွင့်ရသဖြင့် ဆရာတော် နှင့် အတော်ရင်းနှီးလေ၏၊ တစ်ခါတုန်းက မန္တလေး မြို့ အဘိဓဇမဟာရဋ္ဌဂုရု မစိုးရိမ်ဆရာတော်ဘုရား ကြီး ဦးသူရိယထံသို့ ရောက်ခိုက်တွင် ဆရာကြီး ရွှေဥဒေါင်းက...

"မြန်မာနိုင်ငံမှာ တပည့်တော်ထက် စာရေး သာတာ တစ်ဦးတည်း ရှိတယ်ဘုရား၊ အဲဒီ ပုဂ္ဂိုလ်က ဘယ်သူလဲဆိုရင် တောင်မြို့ မဟာ ဂန္ဓာရုံဆရာတော်အရှင်ဇနကာဘိဝံသပဲဘုရား၊ သူက ပိဋကတ်စာပေတွေကို ထုံးလို ချေ၊ ရေလို နှောက်နိုင်တော့ တပည့်တော်ထက် သာနေတာ ပေါ့ ဘုရား"ဟူ၍ လျှောက်ထားလေသတတ်။

## မေတ္တာဝါဒရှုထောင့်ကဏ္ဍ

ဆရာကြီး ရွှေဥဒေါင်းသည် လုပ်သားပြည်သူ့ နေ့စဉ်သတင်းစာတွင် အယ်ဒီတာချုပ် အဖြစ်နှင့် တာဝန်ယူနေရစဉ်က ဆရာတော်ထံသို့ ရောက် ရောက်လာတတ်၏၊ ပြီးလျှင် မေတ္တာနှင့်ပတ်သက် သော အချက်အလက်များကို လျှောက်ထားဆွေး နွေး၍ လုပ်သားသတင်းစာတွင်... "မေတ္တာဝါဒ ရှုထောင့်ကဏ္ဍ"ဖွင့်လှစ်ကာ ရေးသားတင်ပြလေ သည်၊ ထိုအခန်းတွင် "အဂ္ဂမဟာပဏ္ဍိတ ဆရာ တော်တစ်ပါးနှင့် ဆွေးနွေးချက်"ဟူသော ခေါင်းစဉ် ဖြင့် ဖော်ပြထား၏၊ ယင်း ဖော်ပြချက်ကို ယခု ပြန်လည် တင်ပြရသော်...

**ဆရာတော်**။ ။ ဘယ်တုန်းက ရောက်လာသလဲ ဒကာ ကြီး။

**ရွှေဥဒေါင်း**။ ။ တပည့်တော် မနေ့က ရောက်ပါတယ် ဘုရား၊ ရောက်ရောက်ခြင်း စစ်ကိုင်း တောင်ရိုးကို သွားပြီး အရှင်ဘုရားထံ လာခဲ့ပါတယ်ဘုရား။

**ဆရာတော်**။ ။ ဒကာကြီးကို ကျန်းကျန်းမာမာ မြင်ရ တာ ဘုန်းကြီး သိပ် ဝမ်းသာတယ်၊ ဒကာကြီးရေးတဲ့ စာတွေကို ဘုန်းကြီး

အမြဲတမ်း စောင့်ဖတ်ပါတယ်၊ ခုမှ မဟုတ်ဘူး, ဂျပန်ခေတ် မတိုင်မီက တည်းက ဖတ်ဖတ်လာခဲ့ပါတယ်။

**ရှေ့ဒေါင်း**॥ ॥ အရှင်ဘုရားက ဘယ်လို သဘောရ ပါသလဲဘုရား။

**ဆရာတော်**॥ ॥ ဘုန်းကြီးကတော့ ငယ်ကြိုက်ပဲ ဒကာကြီး၊ သို့သော် ဆရာနှင့်ဒကာဖြစ်တဲ့ အတိုင်း ပြောချင်တာလေးတွေတော့ ရှိတာပဲ ဒကာကြီး။

**ရှေ့ဒေါင်း**॥ ॥ ပြောစရာရှိလျှင် တပည့်တော်ကို မညှာပါနှင့်ဘုရား, အမိန့်ရှိတော်မူပါ။

**ဆရာတော်**॥ ॥ ဆရာ ဒကာ ဆိုပေမယ့် ဒကာကြီးက ဘုန်းကြီးထက် အသက်အားဖြင့် ၁၀ နှစ် ကြီးတယ်၊ လောကီ ဗဟုသုတ အရာမှာလဲ ဘုန်းကြီးထက် များစွာ ပြည့်စုံတယ်ဆိုတော့ ပြောစရာ များ များတော့ မရှိပါဘူး။

**ရှေ့ဒေါင်း**॥ ॥ တပည့်တော် ရောက်တဲ့အခါမှာ တစ် ခွန်း တစ်ပါဒဖြစ်စေ ဩဝါဒ မိန့်ကြား တော်မူပါ ဘုရား၊ တပည့်တော်က ဦးထိပ်ပန်ဆင်ဖို့ အသင့်ပါဘုရား။

**ဆရာတော်**॥ ॥ ပြောစရာစကားက အသစ်အဆန်း တော့မဟုတ်ပါဘူး၊ ဘုန်းကြီးနှင့်ဒကာ ကြီးနဲ့ တွေ့ကြတဲ့အခါတိုင်း သတိပေး နေကျဖြစ်တဲ့ စကားတစ်ခွန်းပါပဲ။

**ရှေ့ဒေါင်း**॥ ॥ တပည့်တော် မှတ်မိပါတယ်ဘုရား၊ "မှန်သောစကားပင် ဖြစ်သော်လဲ အကျိုး ရှိ/မရှိ ချင့်ချိန်ပြီး ပြောသင့်မှ ပြောရမယ်" ဆိုတဲ့ ဩဝါဒစကား မဟုတ်လား ဘုရား။

**ဆရာတော်**॥ ॥ အား-ဒကာကြီး မှတ်မိသားပဲ၊ သာဓု, သာဓု။

**ရှေ့ဒေါင်း**॥ ॥ မှတ်မိဆို ဟိုတစ်လောက မဟာစည် ဆရာတော်နှင့် တွေ့လို့ ဒီ စကား အတိုင်းပဲ ဩဝါဒပေးတယ် ဘုရား၊ ဒါနဲ့ တပည့်တော်က "တောင်မြို့ ဂန္ဓာရုံဆရာတော်ကလဲ ဒီဩဝါဒပဲ ပေးပါတယ်ဘုရား"လို့တောင် ပြန်ပြီး လျှောက်ထားခဲ့သေးတယ်။

မဟာစည်ဆရာတော်ကိုတော့ "မှန်ပါဘုရား"လောက်သာ လျှောက်ခဲ့ ပါတယ်, အရှင်ဘုရားကိုတော့ ဆရာ တပည့် အရင်းအချာ ဖြစ်နေလို့ အနည်းငယ် ပြန်လည်လျှောက်ထား ချင်ပါသေးတယ်ဘုရား။

**ဆရာတော်**॥ ॥ လျှောက်ပါ ဒကာကြီး, လျှောက်ပါ၊ ဒကာဆိုသော်လဲ ဒကာကြီးရဲ့ ပြန် လည် လျှောက်ထားချက်မျိုးကိုတော့ ဘုန်းကြီးလဲ ကြားလိုလှပါတယ်။

**ရှေ့ဒေါင်း**॥ ॥ တပည့်တော်သည် ဆရာတော်နှစ်ပါး ၏ ဩဝါဒစကားကို ဦးထိပ်ရွက် ပန် ဆင်လိုသော်လဲ တပည့်တော်ရဲ့ အခြေ အနေက တစ်မျိုး ဖြစ်နေပါတယ် ဘုရား။

**ဆရာတော်**॥ ॥ ဘယ်လို တစ်မျိုးဖြစ်နေတာလဲ ဒကာ ကြီး။

**ရှေ့ဒေါင်း**॥ ॥ တပည့်တော် တစ်သက်တာမှတ်တမ်း စာအုပ်ကို အရှင်ဘုရားအား ကပ်လှူ ထားပြီးဖြစ်လို့ အရှင်ဘုရား ဖတ်ရ သည့်အတိုင်း လူတော်တော်များများ က တပည့်တော်ကို နှိမ်ချင်ကြတယ်၊ တပည့်တော်ရေးတဲ့ စာပေများကို "ကစော်စာပေ"လို့ မဲ့ရွဲ့ပြီး ပြောသူက ပြော, "ငရဲသွားချင်ရင် ရှေ့ဒေါင်း၏ စာပေများကို ဖတ်ကြ"လို့ စာအုပ်ရိုက် ပြီး ဝေသူကဝေ။

"သူ့ကိုယ်သူ အရိယာပုဂ္ဂိုလ်တစ် ဦး မှတ်ထင်နေတယ်"လို့ ပြောသူက ပြော၊ "ဝတ္ထုရေးသမားတစ်ယောက်က ပရမတ်နဲ့ ပတ်သက်တဲ့ ကိစ္စမျိုးမှာ တောင်ရေး မြောက်ရေးနဲ့ ဝင်ရှုပ်နေ တယ်" လို့ ဆိုသူက ဆို, ဒီတော့ကာ

သူတို့ မသိသေးတဲ့ ကိစ္စမျိုးတွေမှာ တပည့်တော် သိထားတာမျိုးလဲ ရှိနေလေတော့ အရှင်ဘုရားများက ဩဝါဒ ပေးတော်မူကြသလို "အကျိုးရှိသည် မရှိသည်" စဉ်းစားမနေနိုင်တော့ဘဲ တပည့်တော် သိထားတဲ့ အချက်အလက်တွေကို လျှပ်တစ်ပြက် ဖော်ထုတ်ရေးမိတဲ့ အပြုအမူတွေ ပါကုန်တာပေါ့ဘုရား။

**ဆရာတော်**။ ။ ဒကာကြီးရဲ့ တစ်သက်တာမှတ်တမ်း စာအုပ်ကို ဘုန်းကြီး ဖတ်ခဲ့ဖူးလို့ သိရပါတယ်၊ ဒကာကြီးက အဘိုးရဲ့ဩဝါဒ အတိုင်း "ယောက်ျားကလေးဆိုတာ စုံမှကွဲ့"ဆိုပြီး လောကကြီးမှာ လူစုံ တစ်ယောက်ဖြစ်အောင် ပျော်ပျော်ပါးပါး နေချင်တတ်တဲ့ ဝါသနာက ရှိပေတာကိုး၊ အဲဒီ ဝါသနာ, အဲဒီ အမူအကျင့်တွေက ဒကာကြီးအဖို့ ဘောင်မဝင်အောင် ဖြစ်နေတယ်၊ ဒီတော့ သူတို့က ဒကာကြီးကို ခနဲ့လိုက်, ဒကာကြီးက ပြန်တွယ်လိုက်နဲ့ အဆင်မပြေမှုတွေ ဖြစ်ပေါ်နေတယ်ပေါ့လေ။

**ရှွေဥဒေါင်း**။ ။ တပည့်တော် အယူအဆက "လူတစ်ယောက်သည် သူတစ်ပါးအား မထိခိုက်သမျှ ကာလပတ်လုံး မိမိ ကြိုက်သလို နေထိုင်ခွင့်ရှိတယ်"လို့ သည်လို မဟုတ်ပါလား ဘုရား။

**ဆရာတော်**။ ။ ဘုန်းကြီးရှင်းပြပါဦးမယ်၊ ဒကာကြီးရဲ့ စာတွေထဲမှာ ဘုန်းကြီးဖတ်ရဖူးတယ်၊ "မြင်းများဟာ အပြစ်ကလေး တစ်ခု ရှိမှ စွန့်စားတတ်တယ်"တဲ့၊ ပြီးတော့ "သွားများဟာ ညီညာမှ လှသည် ဆိုသော်လည်း အချို့သော မိန်းကလေးများမှာ သွားတက်ကလေး ပါသည့်အတွက် ပို၍ ကြည့်ကောင်းတယ်" ဆိုသလို ယောက်ျားများ အဖို့မှာလဲ ဒကာကြီးရဲ့ ဝတ္ထုထဲက သူတော်လိမ်တို့, ဒဂုဏ်တင်တို့ဆိုတဲ့ ဇာတ်ကောင်ဇာတ်လိုက်များကို ဒကာကြီးက အားကျပြီး အဘိုးရဲ့ ဩဝါဒအတိုင်း ကိုက်ညီအောင် ပျော်ပျော်ပါးပါးကလေး နေချင်တတ်တာကိုး၊ ဒီအချက်ဟာ ဒကာကြီးအဖို့ နည်းနည်း ခွကျဟန်တူတယ်။

**ရှွေဥဒေါင်း**။ ။ အမိန့်ရှိပါဦးဘုရား။

**ဆရာတော်**။ ။ နိုင်ငံရေးသမားများနှင့် အုပ်ချုပ်ရေးသမား စသည်တို့ အဖို့မှာ လူစုံ လူကောင်းများသည် ချီးမွမ်းခံရသော အဖြစ်သို့ ရောက်နိုင်ကြတယ်၊ သို့သော် ဒကာကြီးကတော့ တရားလောကထဲမှာ ရှေ့ဆောင်ရှေ့ရွက် ပြုလုပ်ချင်တဲ့ ပုဂ္ဂိုလ်တစ်ဦး ဖြစ်တော့ "လူစုံ လူကောင်း" တစ်ယောက်အနေနဲ့ အံမဝင် ခွင်မကျဘူး ဒကာကြီး။

**ရှွေဥဒေါင်း**။ ။ ထပ်ပြီး အမိန့်ရှိပါဦးဘုရား။

**ဆရာတော်**။ ။ ဒကာကြီးလို တရားလောကထဲမှာ ရှေ့ဆောင်ချင်တဲ့ ပုဂ္ဂိုလ်များအနက် ဘုန်းကြီးတို့လို ရဟန်းများအတွက်မှာတော့ "စုံတယ်"ဆိုတဲ့ အခြင်းအရာသည် ခုတင်က ပြောခဲ့တဲ့ "သွားတက်ကလေး"လို ပို၍ ကြည့်ကောင်းတဲ့ အရည်အချင်း တစ်ခု ဖြစ်မလာဘဲ အဲဒီအတွက် အကြည်ညို ပျက်စရာ ဖြစ်သွားနိုင်တယ် ဒကာကြီး။

**ရှွေဥဒေါင်း**။ ။ အရှင်ဘုရား ဆိုလိုတော်မူခြင်းက တပည့်တော်ကဲ့သို့ တရားဘက်မှာ ဦးဆောင်ချင်တဲ့ပုဂ္ဂိုလ်များနှင့် အရှင်ဘုရားတို့ကဲ့သို့သော ရဟန်းတော်များ အဖို့မှာ အနေအထိုင်နှင့်ပတ်သက်လို့ အပြစ်အနာအဆာမရှိဘဲ ဖြူစင်သန့်ရှင်းလေလေ ကောင်းလေလေ ဖြစ်သည့်အတွက် တတ်နိုင်သမျှ ဖြူစင်သန့်ရှင်းအောင် ကြိုးစားနိုင်မှ တော်ရုံကျတယ်လို့ ဆိုလိုခြင်း မဟုတ်ပါလား ဘုရား။

**ဆရာတော်**။ ။ ဟုတ်တာပေါ့ ဒကာကြီး, သိပ်မှန်တာပေါ့။

## စာတ်သိမ်းခါနီးတွင်

ဤသို့ စသည်ဖြင့် ဆွေးနွေးရေးသား တင်ပြထားလေသည်၊ ဆရာကြီးရွှေဥဒေါင်းသည် အခြားအခြားသော စာရေးဆရာတို့နှင့်ဆိုလျှင် ဘုကလန့်လုပ်ချင်သော်လည်း မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသကိုကား လေးလေးစားစား ဦးထိပ်ထားပေ၏၊ နောက်ဆုံး ဘဝဇာတ်သိမ်းခါနီး… မန္တလေးနေအိမ်တွင် သူမကျန်းမမာ ဖြစ်သောအခါ "ဆရာတော် အရှင်ဇနကာဘိဝံသကို ဖူးလိုလှပါသည်"ဆို၍ သူကိုယ်တိုင် မိတ်ဆွေတစ်ဦး၏ကားဖြင့် ဆရာတော့်ထံသို့ သွားမည်ဟု ကြိုးစားသည်ဟူ၏။

ထိုအသံကြား၍ ဆရာတော် အရှင် ဇနကာဘိဝံသက "ဒကာကြီး မလာခဲ့ပါနဲ့, ဘုန်းကြီးနှင့် ဒကာ ထိန်ဝင်းတို့ လာခဲ့ကြမည်"ဟု အကြောင်းကြားစေသည်၊ ထို့နောက် ဒကာထိန်ဝင်းနှင့် အတူ အမရပူရမှ ဂျစ်ကားတစ်စီးဖြင့် ဆရာကြီးအိမ်သို့ ရောက်ခဲ့ကြ၏၊ ဆရာတော်က ဆရာကြီးရွှေဥဒေါင်း၏ ခေါင်းရင်းဘက်မှ နေ၍ ဗုဒ္ဓါနုဿတိဘာဝနာတရားကို အတော်ကြာအောင် ဟောကြား၍ပေး၏၊ ဆရာကြီးကလည်း အားရပါးရ ငြိုက်ငြိုက် မြိုက်မြိုက်ပင် နာယူ၍ သွားလေသည်။

## အရှင်ဇနကာဘိဝံသ၏ စာရေးဟန်
### မတ်တပ်ရပ်၍ စာရေးလေ့ရှိ

ရှေးတုန်းက ဆရာတော်ကြီးများ ကျမ်းပြုကြသည့်အခါ ပေရွက်ပေါ်မှာ သံချွန်ကညစ်ဖြင့်စိုက်၍ ဖိနှိပ်ရေးကြရသဖြင့် စာတစ်လုံးတစ်လုံး ဖြစ်ဖို့အရေး မလွယ်ကူလှချေ၊ မနည်းအားစိုက်၍ ဖိ၍ ဝီရိယကို အဖော်ပြုကြရပေသည်၊ အားစိုက်ရသလောက်လည်း သဒ္ဓါတရားနှင့်ကုသိုလ်စိတ်တွေ ပွားကြရပါလိမ့်မည်၊ ထို့ကြောင့် အားရပါးရဖြစ်ဖို့ရာ ပေရွက်ကို စားပွဲနိမ့်နိမ့် မျက်နှာပြင်ပေါ်မှာတင်, ဘယ်ဘက်လက်ဖြင့် ထိန်းကိုင်ထား, ရေးသောပုဂ္ဂိုလ်က တင်ပျဉ်ခွေထိုင် (ငုတ်တုတ်ထိုင်၍) ညာဘက်လက်ဖြင့် ဖိနှိပ်အားစိုက်၍ ရေးသားတော်မူလေ့ရှိကြသည်။

လယ်တီဆရာတော်ဘုရားကြီးကား… ထိုသို့ မဟုတ်ပြန်ချေ၊ ဖျာကြီးတစ်ချပ်ကို ဖြန့်ပြန့် ကျယ်ကျယ်ခင်း, ခေါင်းအုံးပြားပြားတစ်ခုကိုချ, ကလောင်ဖြင့်ထောက်, ဝမ်းလျားမှောက်ပြီး လွတ်လွတ်လပ်လပ် ခြေကို ဆန့်လျက် အားရပါးရ ကျမ်းစာများကို ရေးသားပြုစုတော်မူသည်ဟု ကြားဖူးပါ၏၊ အများအားဖြင့် လူခြေတိတ်ချိန်ညပိုင်းကျမှ ရေနံဆီမီးခွက်ကြီးတစ်လုံးကို ထွန်းညှိပြီး ရေးသားတော်မူလေ့ရှိသည်ဟု ဆိုပါသည်။

ပထမ ရွှေကျင်ဆရာတော်ဘုရားကြီးကမူ… တရားဘာဝနာ ရှုမှတ်ရင်း, ပက်လက် လှန်၍ လဲလျောင်းရင်းပင် မိမိကျမ်းစာတို့ကို ပုရပိုက်ပေါ်၌ ရေးသားပြုစုတော်မူ၏ဟု မှတ်ရဖူးပြန်သည်။

အရှင်ဇနကာဘိဝံသ ဆရာတော်ကျတော့ ဟန်တစ်မျိုး ဖြစ်ပြန်၏၊ ထိုင်လျက်လည်း မရေး, ဝမ်းလျားမှောက်၍လည်း မရေး, ပက်လက်လှန်၍လည်း မရေး, မတ်တပ်ကြီး ရေးနေပြန်သည်။

ဆရာတော် အရှင်ဇနကာဘိဝံသသည် စာရေးစားပွဲကြီးကို သူ့အရပ်နှင့် လိုက်အောင် ခြေတံရှည်ရှည် အနေတော် တိုင်း၍ ပြုလုပ်ထား၏၊ အခြားစားပွဲတွေထက် မြင့်သည်။

(စောစောပိုင်းက မတတ်နိုင်ခင်ကဆိုလျှင် ရရာလက်ရှိစားပွဲအိုကလေးကို သူ့အရပ်နှင့် အနေတော်အောင် အုတ်ခဲခုပေးကြရသည်။)

## သွေးလေဖြောင့်ဖို့ မတ်တပ်ရပ်ခြင်း

တစ်ခါက စကားစပ်မိ၍ စာရေးဆရာ-သတင်းစာဆရာ လူထုဦးလှက လျှောက်မိသည်၊ "အမေရိကန်က နိုဘယ်လ်ဆုရ ကမ္ဘာကျော်စာရေးဆရာ ကြီး ဟမ်းမင်းဝေးလဲ စာရေးတဲ့အခါ ကျမ်းကိုး ကျမ်းကား စာအုပ်တွေကို စားပွဲကြီးပေါ် ဖြန့်တင် ထားပြီး မတ်တပ်ရပ်ကြီး ရေးတာပဲ၊ အခု ဆရာ တော်လဲ မတ်တပ်ရပ်ပြီး ရေးနေတာပဲ" ထိုအခါ ဆရာတော်က ဤသို့ ပြန်၍ မိန့်သည်။

> "ဘုန်းကြီးကတော့ စာရေးဆရာကြီး ဟမ်းမင်းဝေး အကြောင်းကို အခု ဒကာလှ လျှောက်မှ သိရတာပါ၊ ဟမ်းမင်းဝေးကို အတုခိုးတာတော့ မဟုတ်ပါဘူး၊ ဘုန်းကြီး ကျန်းမာရေးနှင့် ဘုန်းကြီးပါ၊ အခုတော့ မတ်တပ်ရပ်ပြီး ရေးရမှပဲ အားရတော့ တယ်" ဟူ၍ ဖြစ်၏။

ဟုတ်ပါသည်၊ ဆရာတော်မှာ ငယ်စဉ် ကလေး ဘဝမှစ၍ အသက် ၂၇ နှစ်လောက်အထိ စာသင်သားဘဝ, စာမေးပွဲဝင်သူဘဝ, စာချဘုန်းကြီးဘဝ တို့ဖြင့် ကြိုးစားခဲ့ရသော ဒဏ်တို့ကြောင့် အသက် ၂၈, ၂၉, ၃၀ အရွယ်တို့မှာ ခန္ဓာကိုယ် မခိုင်မြဲ ယိုင်လဲလုမျှ ဖြစ်ခဲ့ရလေသည်။

နောက်မှ ထိုအခြေအနေကို ကံအားလျော်စွာ ဉာဏ်လုံ့လတို့ဖြင့် ကုပ့်နိုင်ခဲ့၍ အသက်ရှည်နေရ ခြင်း ဖြစ်ပေသည်။

ထို့ကြောင့် ဆရာတော်မှာ အရာရာတွင် သတိ ရှိစွာဖြင့် ကျန်းမာရေး မချွတ်ယွင်းအောင် မိမိကိုယ် မိမိ ထူထောင်စီမံနေရခြင်း ဖြစ်ပေ၏၊ စာရေးသား သောအခါ တစ်ခုတည်းသော အာရုံ၌ စိုက်၍ ထား ရသဖြင့် ကိုယ်ခန္ဓာ အနေအထားကို သတိမပြုမိဘဲ ရှိရတတ်၏။



**"ခုလို မတ်တပ်ရပ်ပြီး ရေးမှ အားရတယ်"**

ယင်းသို့ဖြင့် ကာလကြာသော် ဝေဒနာတစ်မျိုး စွဲကပ်လာနိုင်သောကြောင့် သွေးလေ ဖြောင့်ဖြောင့် လျှောက်နိုင်သော ဣရိယာပုတ်ကို ရွေး၍ မတ်တပ် ရပ် ရေးသားတော်မူခြင်း ဖြစ်ပေသည်။

ထို့ကြောင့် ဆရာတော့် စာရေးစားပွဲတွင် ထိုင်စရာ ကုလားထိုင် မရှိချေ။

၃၀၈

# အရှင်ဇနကာဘိဝံသ၏ စာအရေးအသား
## အထပ်ထပ် အဖန်ဖန် ပြန်၍ပြုပြင်

စာရေးသားသော ပုဂ္ဂိုလ်တို့သည် စာရေးနေခိုက်တွင် ဝါကျ မှန်/မမှန်, သတ်ပုံ ဟုတ်/မဟုတ်, လက်ရေး ကောင်း/မကောင်းတို့ကို အာရုံစိုက်၍ မနေနိုင်ပါ၊ မိမိရေးသားလိုသော အကြောင်းအရာ အချက်အလက်များ ပျောက်ကွယ်၍ မသွားအောင် စိတ်ထဲတွင် ဖမ်းထားပြီးလျှင် ထိုအကြောင်းအရာ အချက်အလက်များ ပါအောင်သာ တွန်း၍ ရေးနေရတတ်ပါသည်၊ ဆရာတော် အရှင်ဇနကာဘိဝံသလည်း ဤသဘောပင် ဖြစ်ပါ၏၊ ဤနယ်ပယ်မှ မလွတ်နိုင်ပါ၊ ထို့ကြောင့် ဆရာတော့်အရေးအသားများလည်း အချို့နေရာတွင် ပထမသော် ကံကတ္တားများနေတတ်ပါ၏၊ ရှေ့နောက် အနေအထား လွဲနေတတ်ပါသည်၊ သို့သော် ဆရာတော်က ရေးသားပြီးလျှင် ပြန်၍ ဖတ်တတ်၏၊ ပြန်၍ စစ်ဆေးတတ်၏၊ အမှားတွေ့လျှင် ပြန်၍ ပြင်သည်၊ ရှေ့နောက်လွဲနေလျှင် အနေအထား တော်အောင် ပြုပြင်ပြောင်းလွဲပေး၏၊ ထိုအခါ ဝါကျစာသွားများ ချောသွားတော့သည်၊ ထို့ပြင်လည်း စာအနေ ဖွာလန်ကြဲနေလျှင် သိပ်သည်းအောင် ပြုပြင်ရေး၏၊ ကျစ်ကျစ်လျစ်လျစ်ဖြစ်အောင် ဝါကျကို ပြင်၍ တည်ဆောက်သည်၊ ပိုနေသော အချက်အလက်တို့ကို ဖျက်၍ ပစ်တတ်၏၊ လိုနေသော အချက်အလက်တို့ကို ထပ်၍ ဖြည့်တတ်သည်၊ ထို့ကြောင့် ဆရာတော်၏ လက်ရေးမူကြမ်းကို ကြည့်လျှင် ဖျက်ရာတို့ကိုလည်းကောင်း, နံဘေးမှ မြားပြပြီး ထပ်၍ စွက်ရာတို့ကိုလည်းကောင်း တွေ့နိုင်သည်၊ အဦးဆုံး ထွက်ပေါ်လာသော ဆရာတော်၏ "ရတနာ့ဂုဏ်ရည်" စာအုပ်တုန်းကဆိုလျှင် မူကြမ်းမှ အချောရေးလိုက်, ထပ်ပြင်လိုက်, အချောထပ်ရေးလိုက်, ထပ်ပြင်လိုက် လုပ်နေသည်မှာ "ခြောက်ကြိမ်တိုင်တိုင် ရှိသည်"ဟု ယခု နာယကဦးစီးဆရာတော် အရှင်စန္ဒောဘာသက ပြောပြဖူးသည်၊ ထို့ကြောင့်လည်း ယင်းစာအုပ်ကလေး ထွက်ပေါ်လာသောအခါ ပြောင်ပြောင်မြောက်မြောက် တောက်တောက်ပပ ယခုတိုင်အောင် လှနေခြင်း, ယခုတိုင်အောင် ဖတ်၍မဝခြင်း ဖြစ်ရလေသည်။

## ကျစ်လျစ်အောင် ရေးသားနည်း

စာရေးသားရာ၌ တစ်ခါတည်း ကောင်းပြီးသား ဖြစ်လာဖို့, တစ်ခါတည်း အနှစ်အသား ပါလာဖို့, တစ်ခါတည်း ကျစ်လျစ်ပြီးသား ဖြစ်လာဖို့ဆိုသည်မှာ လွယ်ကူလှမည် မဟုတ်ပါချေ၊ အလွန်ဝါရင့်နေသော ကလောင်အိုကြီးများသော်မှ (ရေးပြီးပြီ ဆိုလျှင် ပြန်လည်ကြည့်ရှု၍)ပြင်ရ ဖျက်ရ စွက်ရသော လုပ်ငန်းများ ရှိနေတတ်ပါသည်၊ သို့ဖြစ်၍ ဆရာတော် အရှင်ဇနကာဘိဝံသလည်း ဤတာဝန်များ မကင်းပါချေ၊ ပိုနေသည်ကို ဖျက်ပစ်ရခြင်း, လိုနေသည်ကို ထပ်မံစွက်ရခြင်း, စာအနေအထား ဖွာလန်ကြဲနေလျှင် ကျစ်လျစ် သိပ်သည်းအောင် ပြန်လည်ပြုပြင်ရခြင်းများ ရှိနေရပါ၏၊ တစ်ခါက မူလဋီကာစာဝါကို ချပို့ရင်း အကြောင်းစပ်လာ၍ အမိန့်ရှိဖူးသည်၊ မူလဋီကာ စာအရေးအသား (စကားလုံး အထားအသို အပိုအလို မရှိ၊ တိကျသားနားပုံ)နှင့်ပတ်သက်ပြီး ဤသို့ အမိန့်ရှိပါသည်။

"ဒီ မူလဋီကာဟာ တို့ ပါဠိ ပိဋကတ်စာပေလောကမှာတော့ စာအရေးအသားအကျစ်လျစ်ဆုံး, အကောင်းဆုံး, အတော်ဆုံးပဲ၊ ဖျက်စရာလဲ မရှိ၊ စွက်စရာလဲ မလို၊ အပို တစ်လုံးမျှ မပါ၊ စကားလုံးကလဲ နှမြောလှပါဘိ၊ သိပ်တိကျတယ်၊ သိပ်သားနားတယ်လို့ နာမည်ကျော်ကြားတယ်၊ ဒါ့ကြောင့် အပြောအဆို အရေးအသား သိပ်သည်းကျစ်လျစ်လာပြီဆိုရင် 'ကောင်းလိုက်သမှ မူလဋီကာကျနေတာပဲ'လို့ စကားပုံတောင် ပြုကြရတာပေါ့။

ဒါ ဘာလို့ ကောင်းသလဲ? ... ဘာကြောင့် ဒါလောက် ကျစ်လျစ်ရသလဲ?ဆိုရင် ဒီမူလဋီကာ ဆရာတော်ကြီး စပြီးရေးတုန်းကတော့ ဒါလောက်

မကျစ်လျစ်ပါဘူးတဲ့, ရေးပြီးတော့ အကြိမ်ကြိမ် ပြန်ပြီး သိပ်သည်းအောင် ပြုပြင်တာတဲ့၊ ဒီကျမ်းစာကို ရေးပြီး ဒီမူလဋီကာဆရာတော်ကြီးကိုယ်တိုင် သူ့ကျမ်းစာကလေးကို ကိုင်ကိုင်ပြီး သူ့တပည့်တွေကို အကြိမ်ကြိမ် အခေါက်ခေါက် ပို့ချတာတဲ့။

အဲလို ပို့ချရင်း အခေါက်တိုင်း အခေါက်တိုင်း ပိုတဲ့ ဝါကျကို ဖျက်, လိုတဲ့စကားလုံးကို ဖြည့်, ကျဲတဲ့ ဝါကျကို သိပ်သည်းအောင် ပြန်ပြီး ပြုပြင်, အကြိမ်ကြိမ် ပြင်ဆင်ပြီးမှ နောက်ဆုံးတွင် ဖျက်စရာ စွက်စရာ ဘာမျှ မလိုတော့ဘူးထင်မှ ပေမူတွေ ပွားပြီး ကျမ်းစာအဖြစ် ထုတ်ဝေတာတဲ့၊... ဒါကြောင့် ဒါလောက် ကျစ်ကျစ်သိပ်သိပ်နှင့်ကောင်းတာ၊ ငါက အဲဒါကို အတုယူတာကွ"တဲ့။

ဤသို့လျှင် ဆရာတော် အရှင်ဇနကာဘိဝံသ၏ စာများ ကျစ်ကျစ်လျစ်လျစ် သိပ်သိပ်သည်းသည်း ရှိသည်မှာ အဖန်ဖန် အထပ်ထပ် ပြန်၍ ပြုပြင်ထားသောကြောင့် ဖြစ်၏၊ ဆရာတော်နည်းရသည်မှာ ပါဠိပိဋကတ်စာပေများထဲမှပင် ဖြစ်သည်။

## ကြိမ်ဖန်များစွာ ပြုပြင်၍ ကောင်းခဲ့ကြ

တစ်ခါတုန်းက စာရေးဆရာကြီး ရွှေဥဒေါင်းက မေးလျှောက်ဖူးသည်၊ "တပည့်တော်တော့ စာအရေးအသားကို အင်္ဂလိပ်စာပေတွေထဲက နည်းရတာပဲ၊ ဝါကျအနေအထား အသွားအလျာ ကျစ်လျစ်လာအောင် အင်္ဂလိပ်စာပေကို အတုယူတာပဲ၊ ဆရာတော်ကော ဘယ်က နည်းရပါသလဲ" ဟု မေးလျှောက်ရာ ဆရာတော် အရှင် ဇနကာဘိဝံသက "ဘုန်းကြီးကတော့ ပါဠိပိဋကတ် စာပေတွေထဲက နည်းရတာပဲ၊ အဋ္ဌကထာ အရေးအသား, ဋီကာ အရေးအသားတွေဟာ တချို့နေရာတွေမှာ သိပ်ကောင်းတယ်၊ အဲဒါတွေကို အတုယူပြီး မြန်မာလို ရေးတာပဲ"ဟု ဖြေကြားတော်မူသည်။

ဤသို့လျှင် နာမည်ကျော် မြန်မာစာရေးဆရာကြီးများ အချို့၏ မူစနစ် အလေ့အထကို သိကြရသလို ကမ္ဘာကျော် စာရေးဆရာကြီးများအချို့၏ အလေ့အထကိုလည်း တစ်စွန်းတစ်စ ကြားဖူးရပါသည်၊ ဆိုဗီယက်နိုင်ငံမှ ကမ္ဘာကျော်စာရေးဆရာကြီး "လီယိုတော်လ်စတွိုင်း"၏ "စစ်နှင့်ငြိမ်းချမ်းရေး"[1] ဝတ္ထုကြီးမှာ ကမ္ဘာ့အလယ်တွင် လူတိုင်း၏ နှုတ်ဖျား၌ ရေပန်းစားခဲ့ရ၏၊ နာမည်ကြီးလှသည်၊ ထိုဝတ္ထုကြီးကို အကြမ်းရေးသားပြီးနောက် ဖြည့်စွက် ပယ် ဖျက် ပြင်ဆင်၏၊ ပြီးလျှင် ဇနီးလုပ်သူက အချောကူးပေးရသည်၊ ထိုအချောပေါ်တွင် ထပ်၍ ပြင်ပြန်၏၊ နောက်ထပ် အချောကူးပေးရပြန်သည်၊ ဤနည်းအားဖြင့် ခြောက်ကြိမ်မြောက် အချောကူးပြီးမှ စာအုပ်အဖြစ်သို့ ရောက်တော့သည် ဟူ၏။



ကျမ်းစာအုပ်အဖြစ်သို့ မရောက်မီ

တစ်ဖန်လည်း ကမ္ဘာကျော် စာရေးဆရာကြီး "အက်ဒွဂစ်ဘင်း"၏ "ရောမအင်ပါယာကြီး ရွေ့လျောပျက်စီးခြင်း"[2]စာအုပ်ကြီးဆိုလျှင် ထို့ထက်ပင် ကဲ၍ ၁၂ ကြိမ်တိုင်တိုင် ပြင်ဆင်သောဟူ၏၊ အုပ်တွဲကြီးများမှာလည်း ၇ တွဲ ရှိသည်၊ ကောင်းလှပုံမှာလည်း ကမ္ဘာကပင် လက်ဖျားခါရတော့၏။

ဤသို့ အကြိမ်ကြိမ် ပြုပြင်မှုနှင့် ပတ်သက်၍ အလေ့အထ အတုယူဖွယ်ကလေးများကို သိရသလို စာရေးသားခြင်း၌ စိတ်ရှည်ရှည်ထားသော အလေ့တစ်ခုကိုလည်း အတုယူဖွယ် တွေ့ရပြန်ပါသည်။

စာရေးဆရာကြီး "သောမတ်(စ်)ကာလိုင်း" သည်"ပြင်သစ်တော်လှန်ရေးကြီး"[3]ဟူသော စာအုပ်ကြီး တစ်အုပ်ကို ရေးသား၏၊ စာအုပ်မထုတ်ဝေမီ စာမူကြမ်းကြီးကို မိတ်ဆွေ ၈ ဦးထံ တစ်လှည့်စီ ပေး၍ အဖတ်ခိုင်းကြည့်သည်၊ အိမ်တစ်အိမ်သို့ အရောက်တွင် အိမ်ဖော်မိန်းမက အမှတ်တမဲ့ဖြင့် မီးမွှေးပစ်လိုက်သည်၊ ထိုအခါ သောမတ်(စ်)က "ငါ့ကို ဘုရားသခင်က ဒါ့ထက်ကောင်းအောင် ရေးစေချင်လို့ ဖြစ်မှာပဲ"ဟု ပြော၍ စိတ်မဆိုးပဲ ထပ်ပြီး ရေးသည်၊ ထို့ကြောင့် ထိုစာအုပ်ကြီးသည်လည်း ကမ္ဘာ့အလယ်တွင် ကျော်ကြား၍ သွားတော့၏။



ကြိမ်ဖန်များစွာပြုပြင်၍

ထို့ကြောင့် စာရှုသူများ စာရေးသားလိုပါက မိမိတို့ အရေးအသားတွင် တစ်ခါတည်း ကောင်းပြီးသား ထွက်ပေါ်မလာသဖြင့် အားငယ်မနေကြပါနှင့်၊ ဖော်ပြပါအတိုင်း အရှင်ဇနကာဘိဝံသသည်ပင် ကြိမ်ဖန်များစွာ ပြုပြင်ထား၏၊ လိုစွက် ပို့ဖျက် လုပ်ထားသည်၊ ဤပုဂ္ဂိုလ်ကြီးများ၏ လုံ့လဝီရိယအား စိတ်ရှည်ရှည်ထားမှု, ကြိမ်ဖန်များစွာ ပြန် လည် ပြင်ဆင်မှုတို့ကို အားကျပြီး အတုယူပြီး ရေးဝံ့ကြပါစေ, ရေးရဲကြပါစေ, ရေးဖြစ်ကြပါစေ။

## အရှင်ဇနကာဘိဝံသ၏ ဝါကျအသွား

### ချောမောပြေပြစ်ခြင်း

ဆရာတော် အရှင်ဇနကာဘိဝံသ၏ စာပေအရေးအသားဝါကျများမှာ (ခေတ်စာပေများကဲ့သို့) စာနုစာယဉ် စာညွန့်စာကွန့်များ မဟုတ်ကြပေ၊ လေးနက် တည်ငြိမ်သော ကျမ်းစာများကို အမိမြန်မာဘာသာသို့ ပြန်ဆိုရေးသားနေရသည်ဖြစ်၍ တည်တည်ငြိမ်ငြိမ် ခံ့ခံ့ညားညားပင် ရေးသားသော အရေးအသားမျိုး ဖြစ်သည်၊ အိပ်ချင်စရာကောင်းလောက်အောင်ပင် လေးတွဲ့နေသည်လည်း မဟုတ်ပေ၊ ချောမောပြေပြစ်သော ဝါကျအသွား စာသားများသာ ဖြစ်ကြ၏။

---

1. **War and Peace. Leo Tolstoy (1828-1910)**
2. **Decline and Fall of the Roman Empire. Edward Gibben (1737-1794)**
3. **French Rovolution. Thomas Carlyne (1795-1881)**

ထို့ကြောင့် အလွန်ခက်ခဲနက်ရှိုင်းသော တရားသဘောတို့ကို ရေးပြရာတွင်ပင် ကြည်လင်ပြတ်သားစွာ သဘောပေါက်လွယ်၏။

ဥပမာ-အနာဂတ်သာသနာရေးကျမ်းစာအုပ်၌ ပဋိစ္စသမုပ္ပာဒ်တရားတော်အခန်းကို ရေးပြရာတွင်...

## အဝိဇ္ဇာ၏ သဘောသဘာဝ

မည်သူမဆို လွန်ခဲ့ပြီးသောဘဝ, ယခုနေရသော ဘဝနှင့် ဖြစ်ရဦးမည့်ဘဝ ဤသုံးဘဝလောက်ကို ပိုင်နိုင်လျှင် အခြားဘဝများကိုလည်း ဤနည်းချည်းဟု မှန်းဆနိုင်ဖွယ်ရှိ၏၊ ထို့ကြောင့် သုံးဘဝလောက်ဖြစ်စဉ်ကို ရေးပြပေအံ့။

ဤဘဝသို့ မရောက်ခင် ရှေးဘဝ များစွာ၌ အဝိဇ္ဇာနှင့်သင်္ခါရတို့ ဖြစ်ခဲ့ကြပြီ၊ ထိုတွင် အဝိဇ္ဇာသည် သိသင့်သိထိုက်သည်ကို သူကိုယ်တိုင်လည်း မသိတတ်၊ အခြားတရားတို့ မသိအောင်လည်း ဖုံးလွှမ်းကွယ်ကာတတ်သောသဘောတည်း။

ထင်ရှားစေအံ့၊ အဝိဇ္ဇာသည် မှောင်မိုက်ကြီးနှင့်လည်းကောင်း, မျက်မမြင်နှင့်လည်းကောင်း တူ၏၊ အိမ်တစ်ဆောင်အတွင်း၌ မီးမလင်းဘဲ မှောင်ကြီးဖြစ်နေသောအခါ ထိုမှောင်ကြီးသည် အိမ်တွင်းရှိသမျှ အရာဝတ္ထုတွေကို သူကိုယ်တိုင် မမြင်နိုင်သည့်အပြင် အမှောင်တွင်း၌ ရောက်နေသူတို့ကိုလည်း အိမ်တွင်းရှိသမျှ မြင်စရာတွေ မမြင်နိုင်အောင်ဖုံးကွယ်ထားသကဲ့သို့လည်းကောင်း, တစ်ဖန်မျက်စိမမြင်သူသည် မြင်ဖွယ်ရာဟူသမျှကို သူကိုယ်တိုင်လည်း မမြင်, သူများကို မြင်အောင်လည်း မညွှန်ပြနိုင်သကဲ့သို့လည်းကောင်း ထို့အတူ အဝိဇ္ဇာသည် သိဖွယ်ဟူသမျှကို သူကိုယ်တိုင်လည်း မသိ၊ အခြားတရားတို့ကိုလည်း မသိအောင် ဖုံးကွယ်ထားတတ်လေသည်။

မိမိ၏ ခန္ဓာအစဉ်မှာ ထိုအဝိဇ္ဇာဓာတ် အမြဲကပ်၍ ပါနေရကား ရှေးဘဝ၌ ထိုအဝိဇ္ဇာ ဖြစ်ခဲ့ပြီဟု မုချဆတ်ဆတ် မှတ်ထားလိုက်ပါ၊ ဤ အဝိဇ္ဇာကို "မောဟ"ဟုလည်း ခေါ်သည်။

## အဝိဇ္ဇာကြောင့် သင်္ခါရဖြစ်ရပုံ

ပြုလုပ်မှုကို "သင်္ခါရ"ဟု ခေါ်၏၊ ထိုသင်္ခါရသည် ကိုယ်ဖြင့် ပြုလုပ်မှု ကာယသင်္ခါရ, နှုတ်ဖြင့် ပြောမှု ဝစီသင်္ခါရ, စိတ်ဖြင့် ကြံစည်စိတ်ကူးမှု မနောသင်္ခါရ သုံးမျိုးရှိ၏၊ အမှောင်တွင်း၌ ရောက်နေသူသည် ငြိမ်ငြိမ်နေမည် မဟုတ်၊ တစ်စုံတစ်ခု ပြုလုပ်ချင်ရာကို ပြုလုပ်နေပေလိမ့်မည်၊ မျက်စိမမြင်သူလည်း ရောက်တတ်ရာရာ သွားလာနေပေလိမ့်မည်။

အမှောင်အတွင်း၌ ရောက်နေသူသည် အမှန်ကို လုပ်မိခြင်းထက် အမှားကို လုပ်မိခြင်းက များဖွယ်ရှိသကဲ့သို့လည်းကောင်း, မျက်မမြင်ပုဂ္ဂိုလ် သည် လမ်းမှန်ကို သွားမိခြင်းထက် လမ်းမှားကို သွားမိခြင်းက များဖွယ်ရှိသကဲ့သို့လည်းကောင်း ထို့အတူ အဝိဇ္ဇာအမှောင်တရား အကန်းတရား အရင်းခံ၍ ဖြစ်ရသော သင်္ခါရ (ကိုယ်မှု, နှုတ်မှု, စိတ်မှု)တို့သည်လည်း အကောင်း အမှန် နည်းပါး၍ မကောင်း မမှန်တွေသာ များဖွယ် ရှိလေသည်။

မျက်မမြင်ပုဂ္ဂိုလ်သည် မြင်သူက တုတ်ဆွဲ လမ်းပြမှ လမ်းမှန်ကို ရနိုင်သကဲ့သို့ အဝိဇ္ဇာဖုံးလွှမ်း၍ ဉာဏ်မျက်စိ ကန်းသူတို့သည်လည်း အဝိဇ္ဇာနည်းပါး၍ အတော်အတန် ဝိုးတိုးဝါးတား မြင်နေရသော ပုထုဇဉ်သူတော်ကောင်း, ထိုထက်မြင့်သော ဘုရားအစရှိသော သူတော်ကောင်းတို့က နည်းမှန်ညွှန်ပြပေးမှသာ မှန်ကန်သော ကောင်းမွန်သော သင်္ခါရတို့ကို ပြုပြင်နိုင်ဖွယ်ရှိသည်။

ယခုကာလ၌ လမ်းကောင်းညွှန်ပြမည့် သူတော်ကောင်း မရကြသူတို့တွင် ဗုဒ္ဓဘာသာဝင် အခေါ်ခံသူတို့ပင် အမှားလမ်းသင်္ခါရတွေကို မည်မျှ လိုက်နေမိကြပါသနည်း၊ ထိုသို့ လမ်းညွှန်ကောင်း မရကြသဖြင့် တခြားသော နိုင်ငံတို့၌ ပညာရှိ အခေါ်ခံသူတို့ပင် မတရားသော အရေးတို့၌ ရှေ့ဆောင်ကာ မည်မျှလောက် ကြမ်းတမ်းသော လမ်းဆိုးကြီးကို သွားနေမိကြပါသနည်း။

## လျှာခလုတ်မတိုက်သော ဝါကျများဖြင့်

ဤကား ဆရာတော် အရှင်ဇနကာဘိဝံသ၏ အရေးအသား မြန်မာစကားပြေများပင် ဖြစ်၏၊ အလွန်နက်နဲ ခက်ခဲသော တရားတော်ကြီးများ အကြောင်းကို ရေးပြရာတွင် ထင်လွယ် မြင်လွယ်သော အသုံးအနှုန်း, ပြေပြစ်ချောမောသော စာသွား, လျှာခလုတ်မတိုက်သော ဝါကျများဖြင့် အချက်ကျကျ ဖော်ပြရေးသားနိုင်စွမ်းရှိတော်မူသည်၊ ဝါကျ အတို အရှည်မှာမူ အရာဌာနအား လျော်စွာ အချို့နေရာ၌ တို၏၊ အချို့နေရာ၌ ရှည်သည်။

ဆရာတော်၏ စာအရေးအသားနှင့် ပတ်သက်၍ သဂြိုဟ်ဘာသာဋီကာကြီး ထွက်ပေါ်လာသော အခါ လယ်တီပဏ္ဍိတ ဦးမောင်ကြီးက "အင်း... မြန်မာစာ အရေးအသား ဝါကျအသွားအလာ နိုင်နင်းပါပေ့"ဟူ၍ ချီးကျူးဂုဏ်ပြုပါသတတ်။

ဆရာတော်က ဝါကျ ချောမောရုံသာမက စကားလုံးဝေါဟာရကိုလည်း စိစစ်ရွေးချယ် သုံးစွဲတတ်သေး၏၊ ယနေ့ခေတ် ပရိသတ်များဖတ်ဖို့ အတွက် ယနေ့ခေတ်သုံး စကားလုံးတို့ကိုပင် သုံးစွဲရေးသားတော်မူတတ်၏၊ ထို့ကြောင့် ခေတ်နှင့် အဆက်ပြတ်မသွားစေရန် နေ့စဉ်ထုတ် သတင်းစာကို အမြဲ ဖတ်တော်မူလေ့ရှိသည်။

ဤသို့ စာရေးကောင်းသော ဆရာတော်၏ လက်ချောင်းကလေးတို့သည် ဝဝဖောင်းဖောင်း တုတ်တုတ်ခိုင်ခိုင်ကလေးတွေ ဖြစ်နေကြ၏။

သို့ဖြစ်၍ တစ်နေ့တွင် စာရေးနေစဉ် ရိုက်ထားသော သူ၏ဓာတ်ပုံကို ကြည့်ပြီးလျှင် "ကောဝိဒ... နောင်တစ်ချိန်ကျတော့ လူတွေက ပြောကြလိမ့်မယ်ကွ၊ ဦးဇနကက စာရေးကောင်းမှာပေါ့၊ လက်ချောင်းကြီးတွေကိုက တုတ်တုတ်ကြီးတွေပဲလို့"ဟု ပြောကာ သူ့ဘာသာသူ သဘောကျနေတော့သည်။



ရေးသားထားသော စာမူကြမ်း

## လင်္ကာ ဆောင်ပုဒ်ကလေးများဖြင့် အမှတ်တင်တတ်

### စာရေးနည်း အတတ်ပညာ

ထို့ပြင် ဆရာတော် အရှင် ဇနကာဘိဝံသ၏ အရေးအသားမှာ အမြဲတမ်း စကားပြေဖြင့်ချည်း သွားသည် မဟုတ်သေး၊ အလွန် မှတ်သားဖွယ် ကောင်းသောနေရာတို့၌ ရင်ထဲနှလုံးထဲမှာ အသည်းစွဲအောင် မှတ်သားထားရမည့် နေရာမျိုးတို့၌ ရပ်တန့်၍လည်းကောင်း (သို့မဟုတ်) အခန်းတစ်ခန်းလုံး ပြီးစီးသောအခါ ထိုအခန်းတစ်ခုလုံးကို စွဲထင်နေစေလိုသော အခါမျိုး၌လည်းကောင်း ယင်းနှင့်

ဆိုင်ရာ လင်္ကာ ဆောင်ပုဒ်ကလေးများ ပြုလုပ်ထား တတ်ခဲ့လေသည်၊ ထိုအခါ ထိုလင်္ကာပုဒ်ကလေးများကို နှုတ်တက်ကျက်၍ ဆောင်ထားခြင်းဖြင့် ထိုအခန်းတစ်ခန်းလုံး ငုံခြုံမိအောင် မှတ်မိနေတော့သည်၊ ဤသည်ကား လက်သန်းကလေးမျှ သေးငယ်လှသည့် (လက်သန်းအဌကထာဟုခေါ်ကြသော) သင်္ဂြိုဟ်ပါဠိကျမ်းကလေးကို အတုယူခြင်း ဖြစ်ဟန်တူပေသည်။

ယင်းကျမ်းကလေးသည် သေးငယ်သလောက် အသားပါလှ၏၊ သေးပင်သေးငယ်သော်လည်း သမုဒ္ဒရာပမာ ကျယ်ဝန်းစွာသော အဘိဓမ္မာ ၇ ကျမ်းလုံးကို ငုံခြုံမိအောင် ရေးသားနိုင်ပါပေ၏၊ အခန်းကလေး တစ်ခုပြီးတိုင်းလည်း အသည်းတွင် စွဲထင်ရစ်အောင် ဆိုင်ရာဂါထာကလေးများ သီကုံး၍ ထားတတ်သည်၊ ဤကား စာရေးခြင်းအတတ်ပညာ တစ်ခုပင် ဖြစ်၏။

## ဘုရားဟောပုံကို အတုယူဟန်ရှိ

ဤကျမ်းကလေးကလည်း မြတ်စွာဘုရား ဟောကြားတော်မူပုံကို အတုယူဟန် ရှိ၏၊ မြတ်စွာဘုရားသည် အချို့နေရာများတွင် စုဏ္ဏိယ စကားပြေများဖြင့် ဟောကြားတော်မူပြီးနောက် အပြီးသတ်တွင် မှတ်လွယ်အောင် ယင်းအကြောင်းအရာကိုပင် ဂါထာဗန္ဓတို့ဖြင့် ဟောပြတော်မူပြန်သည်၊ ဤသည်တို့ကို အတုယူ၍ ဆရာတော် အရှင်ဇနကာဘိဝံသကလည်း လင်္ကာ ဆောင်ပုဒ်ကလေးများဖြင့် အမွှမ်းတင်ကာ နခမ်းသတ်တတ်လေသည်။

ပါဠိစုဏ္ဏိယဆောင်ပုဒ်သည် ဂါထာဖြစ်သကဲ့သို့ မြန်မာစကားပြေ၏ ဆောင်ပုဒ်သည် လင်္ကာပင် ဖြစ်၏။

ထို့ကြောင့် ကျမ်းစာရေးသားလိုသော ပုဂ္ဂိုလ်တို့သည် စကားပြေအရေးအသား တတ်ရုံမျှမက နှုတ်ငုံ ဆောင်စေလိုသော ဌာနတို့၌ နှုတ်ထဲတွင် ထည့်ပေးလိုက်နိုင်ရန် လေးလုံးစပ်လင်္ကာ ကဗျာ ရေးနည်း၊ ဒွေးချိုး လေးချိုးရေးနည်း၊ တေးထပ်ရေးနည်း စသည်တို့ကိုပါ တီးမိခေါက်မိအောင် လေ့လာထားသင့်ပေသည်။

ဆရာတော် အရှင်ဇနကာဘိဝံသကား ငယ်စဉ်က မြောင်းမြဆရာတော်ဘုရားကြီး၏ သင်ပေးထားမှုကြောင့် ပြည့်စုံနေရခြင်း ဖြစ်ပေသည်။

## ပြေပြစ်ညက်ညော ချောမောစာသွား
### ဣန္ဒြေရရဖြင့် ဝါကျရေးသား

ဆရာတော် အရှင်ဇနကာဘိဝံသ၏ ဝါကျ စာသွားကို လေ့လာကြည့်လျှင် ပြေပြစ်ညက်ညော ချောမောသည်ကို တွေ့ရ၏၊ ဘာ့ကြောင့် ချောမောရသနည်း၊ ထပ်မံ လေ့လာကြည့်ပြန်လျှင် သူ၏ စာသားများမှာ ကာရန်တစ်လုံးချိပ်, နှစ်လုံးချိပ် ပါတတ်၏၊ အချို့နေရာများတွင် နဘေထပ်လည်း ပါတတ်သေး၏၊ ဥပမာ... ကိုယ်ကျင့်အဘိဓမ္မာ စာအုပ်၌ လောဘ ဒေါသတို့၏ သတ္တိကိုပြရာတွင်

"စိတ်ထားဖြူစင် သူတော်စင်တို့၏ နဂိုကရှိခဲ့သော ပြဟ္မစိုရ်အအေးဓာတ်တို့သည် လောဘ ဒေါသ အခိုးအရှိန် ဟပ်သဖြင့် ခြောက်ကပ်ကပ် ဖြစ်ကြရကုန်၏"ဟူ၍လည်းကောင်း၊ အမျိုးသား အမျိုးသမီး လူကြီးသူမ တစ်ယောက်သည် ဘုရားကိုပန်း ရေချမ်းတို့ဖြင့် ရှင်လန်းကော်ရော် ပူဇော်မြတ်နိုး ရှိခိုးကန်တော့"ဟူ၍လည်းကောင်း ဝါကျကို စကားပြေသက်သက်မျှသာ မဟုတ်သေးဘဲ ကာရန်ကလေးများ ငြိအောင် ထိစပ်ဆက်သွယ် ရေးသားတတ်လေသည်၊ တချို့နေရာများတွင်မူ အနည်းငယ် နဘေထပ်၍ပင် ရေးတတ်သေး၏။

"သုံးနှစ်လီ မြောက်ပွားက ခြောက်ပါး
ရနိုင်ကြောင်း" ဟူ၍လည်းကောင်း၊
"အောက်အညာမှ ရောက်လာကြသည့်
ခြောက်ရာမျှ သံဃာတော်တို့အား"ဟူ၍

လည်းကောင်း နည်းနည်းပါးပါး ရေးသားတတ်လေသည်၊ သို့သော် ဆရာတော်၏ နဘေတို့ကား... ကလက်တက်တက် မလုပ်, တည်တည်ငြိမ်ငြိမ်

ဣန္ဒြေရရ အရေးအသားမျိုး ဖြစ်၏၊ တစ်ခါသော် ဆရာတော်၏ ညီ (ပထမကျော်) ဦးလာသနက ဇာတ်အဋ္ဌကထာနိဿယ ရေးဖူး၏၊ ဦးလာသန သည် ခေတ်ဆန်ချင်သူတစ်ယောက် ဖြစ်သည်၊ အရာရာတွင်လည်း သွက်လွန်းလှ၏၊ သူ၏နိဿယ တွင် "ရတ္တိယံ-ညဥ့်အခါ၌"ဟူသောနေရာဝယ်...

"ရတ္တိယံ - သန်းခေါင်ယံ မောင်နှံစက်ပါတဲ့၊ အောင်အသံ တောင်ပံနှက်ပါလို့၊ ညောင်ကန်ကြက် တွန်ရာ ညဉ့်အခါ၌"ဟူသော နဘောတို့ဖြင့် ရေးသား လေရာ လေးစားအပ်သော ဆရာတော်ကြီးတစ်ပါး က ဤသို့ မှတ်ချက်ချလေ၏။

"လူက ဣန္ဒြေသိက္ခာနဲ့တော့ စာကလဲ မတည် ငြိမ်ဘူးပေါ့"ဟူ၍ ဖြစ်သတည်း။

"သူ့အစ်ကို ဦးဇနကကတော့ လူကလဲ သိက္ခာ ရှိတယ်၊ စာကလဲ တည်ငြိမ်တယ်"ဟူ၍ မိန့်တော်မူ သတတ်။

## သဒ္ဒါနက်ထိ၊ ချောကျဉ်းဘိ၊ ရှင်း၏ အဓိပ္ပာယ် ချောကျဉ်းပါဘိ၊ သဒ္ဒါထိ၊ ပိရိစကားလုံး

ဆရာတော် အရှင်ဇနကာဘိဝံသသည် ဂါထာ အနက်များကို ရေးသောအခါ နဘောကာရန်များ ပါတတ်၏၊ အဆာသွင်း၍ သီကုံးတတ်၏၊ သို့သော် အများပုဂ္ဂိုလ်တို့ကဲ့သို့ ရှည်ရှည်လျားလျား ရေးသား လေ့ မရှိ၊ တိုတိုကျဉ်းကျဉ်းနှင့် လိုရင်းရောက်အောင် သဒ္ဒါနက်လည်း မလွတ်အောင်၊ အဓိပ္ပာယ်လည်း ရှင်းအောင် ရေးလေ့ရှိသည်၊ ဆရာတော်၏ မူဝါဒ မှာ ရိုးရိုး ပါဠိစုဏ္ဏိယစကားပြေတွင် အနက်ကို ရိုးရိုး ကျဉ်းကျဉ်းပင် ပေးသည်၊ ဂါထာများဆိုလျှင်ကား အဓိပ္ပာယ်ပေါ်လွင်အောင် အနည်းငယ် အဆာ သွင်း၍ ပေးတတ်၏၊ သို့သော် "သဒ္ဒါနက်ထိ၊ ချော ကျဉ်းဘိ၊ ရှင်း၏ အဓိပ္ပာယ်"ဟူသော မူဝါဒအတိုင်း သဒ္ဒါနက်လည်း မလွတ်စေဘဲ ထိမိအောင် ချော လည်း ချော ကျဉ်းလည်း ကျဉ်း၍ အဓိပ္ပာယ်လည်း ရှင်းအောင် ရေးတတ်လေသည်၊ ဥပမာ...စာသင် သားတို့အတွက် စာသင်စည်းကမ်းကို စီစဉ်ရာတွင်

"သောတုသိက္ခာယ-နာယူလေ့ကျက်၊ ဆောင် ရွက်ကြလို့၊ စာသင်ပျိုတို့၊ အလိုမကင်း၊ ပိုမသွင်းဘဲ၊ လိုရင်းတွင်မျှ၊ သင်ပြဖို့အလို့ငှာ၊ အနုပုဗ္ဗိကံ-ကျမ်း ဆင့်ဆင့်နှီး၊ တန်းဖြင့် ပိုင်း၍၊ ဂိုဏ်း၏လက်သုံး၊ စာသင်ထုံးကို၊ သေဋ္ဌေသံ-အပြစ်လည်းကင်း၊ ခေတ်နည်းသွင်း၍၊ ရှင်းရှင်းတီထွင်၊ စီရင်ပါအံ့ သတည်း" ဟူ၍ လိုရင်း တိုရှင်း ရေးသားတော်မူ တတ်လေသည်။

အရာဌာနအားလျော်စွာပင် ဖြစ်၏၊ ဂါထာဟူ သည် သိပ်သည်း ကျစ်လျစ်သော ပါဠိတို့ဖြင့် ဖွဲ့ကုံး ထားတတ်မြဲဖြစ်ရာ ယင်း၏ နောက်ခံကို ပေါ်လွင် အောင် သဒ္ဒါဉာဏ် ဖွင့်ဆိုကြရသည်၊ ဤတွင် တောရကျောင်းကလေး၏ ရှုမျှော်ခင်းကို ဆရာ တော်က အောက်ပါအတိုင်း ပုံဖော်ထားလေသည်။

**သန္ဒမာနဒကော သန္တော၊**
**ဖလပုပ္ဖောပသောဘိတော၊**
**သဥ္ဆန္နော နီလရုက္ခေဟိ၊**
**ပီဏေတိ အဿမော မနံ။**

## သရုပ်လည်း ပေါ်၊ သဒ္ဒါလည်း မလွတ်

သန္ဒမာနဒကော-ငွေသောင်ကမ်းခြေ၊ အပန်း ဖြေဖို့၊ စမ်းရေအယဉ်၊ တသွင်သွင်ဖြင့်၊ အစဉ် မပြတ်၊ စီးသွားရာအရပ်လည်း ဖြစ်ပေထသော၊ သန္တော-မြို့ရွာအူသံ၊ မဆူညံဘဲ၊ လူသံတိတ်ချိန်၊ ဆိတ်ငြိမ်ဘေးမခ၊ အေးမြပေထသော၊ ဖလပုပ္ဖော ပသောဘိတော-ရာသီမလင့်၊ ခါညီသင့်၍၊ သီးပွင့်

ငုံကင်း, ရဂုံတွင်းမို့, ထုံသင်း၍ကြိုင်, တလှိုင်လှိုင် တင့်တယ်ပေထသော၊ နီလရုက္ခေဟိ-စိမ်းတစိုစို, ညို တမှောင်မှောင်, ခိုရောင်မြသွေး, ကမ္ဘာ့ဆေးဖြင့်, အလှရေးသည့်အသွင်, သစ်ပင်ပိတ်ပေါင်း, အရိပ်ကောင်းတို့သည်၊သဥ္စန္နော-ဝဲယာရစ်သန်း,သစ်သစ် လန်းအောင်, ဖုံးလွှမ်းအုပ်ပေထသော၊ အဿမော-ကိုယ်တည်းအောင်းခို, ဖြဟ္မစိုရ်ဖြင့်, အလိုပြည့်ဝ, ဖြည့်စရာနှင့်,တွေ့ရပေတောင်း,ဤသစ်မ်းကျောင်း ကလေးသည်၊ မန်-မနောကြည်ကြည်, သဘော တည်လျက်, တောမှီလိုရိပ်, ယောဂီစိတ်ကို၊ ပီဏေတိ ဝတ-ဝါဖွမ်းဆီထိ, အကြည်ပြည့်သို့, ပီတိ ဓာတ်နှိုး, မပြတ်တိုးလျက်, မြတ်နိုးနှစ်သက်ပေစွ တကား။

ဤသို့ သရုပ်လည်းပေါ်, သဒ္ဒါလည်း မလွတ်, အဓိပ္ပာယ်လည်း ရအောင် လှလှပပ ဖော်ပြဖွင့်ဆို ရေးသားတတ်ပေသည်၊ စာရေးနည်း အတတ်ပညာ၌ ဖြစ်စဉ်ပြရေးနည်း, ကြောင်းကျိုးပြရေးနည်း, သရုပ်ဖော်ရေးနည်း, နိမိတ်ပြရေးနည်း, အားပြိုင်ရေးနည်း စသည်ရှိရာတွင် သရုပ်ဖော်ရေးနည်း ဟုပင် ဆိုရမည်။

## ဉပမာ, ဉပမေယျတို့ဖြင့်လည်း ရေးလေ့ရှိခြင်း

### ရောဂါဖြစ်နေသော ရွာကြီး

နှမ်းအိုးခင်းကို မီးကျီးပေါ် တင်လိုက်သောအခါ ဖျစ်ဖျစ် ဖျစ်ဖျစ် မြည်လျက် နှမ်းလုံးတိုင်း ကျက်နေသကဲ့သို့ ဤခန္ဓာကိုယ်ဝယ် ရုပ်ဟူသမျှ နေရာမလပ် ပျက်၍ ပျက်၍ နေရကား အချိန်ရှိသမျှ ရုပ်ခန္ဓာကို မရဏမီးက လောင်နေ၏၊ နာမ်ခန္ဓာကား ရုပ်ထက်ပင် အပျက်မြန်၍ မရဏမီး အလောင်ခံရမှု များသေးသည်၊ ဤနေရာ၌ ဉပမာတစ်ခု စဉ်းစားကြစို့။

ရွာအိုကြီးတစ်ရွာဝယ် ကူးစက်တတ်သော အနာရောဂါဆိုး ဖြစ်နေ၏၊ လူတွေကား တစ်ယောက်ပြီး တစ်ယောက် သေနေကြသည်၊ ထိုအတွင်းမှာ… ကိုယ်ဝန် အရင့်အမာတွေကလည်း ဖွားမြင်နေကြသေး၏၊ မီးဖွားပြီးသည်နှင့်တစ်ပြိုင်နက် အချို့မိခင်များနှင့် ကလေးများသည် ထိုရောဂါကြောင့် ပျက်စီးကြ၏၊ တချို့လည်း ကိုယ်ဝန်အရင့်အမာနှင့် မီးဖွားချိန် နီးနေပြီ၊ ဆွေတွေ မျိုးတွေ အတော်များစွာ သေကုန်ကြပြီးနောက် ရောဂါဖြစ်လျက် ကျန်နေကြသော တချို့ဆွေမျိုးတွေကို မိမိကိုယ်တိုင် ရောဂါဖြစ်လျက် မြင်နေရသော လူတစ်ယောက်သည် အဘယ်သို့ စိတ်ဖြစ်ရှာမည်နည်း။?

ဒုက္ခတွေ ဗလောင်ဆူနေသော ဤ ရွာကြီးကိုလည်းကောင်း, ကျန်နေသေးသော ဆွေမျိုးတွေကိုလည်းကောင်း, မိမိ၏ ခန္ဓာကိုယ်ကိုလည်းကောင်း မျှော်လင့်ချက်ရှိနိုင်ပါဦးမည်လော, ခင်မင်တွယ်တာသာယာနိုင်ပါဦးမည်လော။?

ကမ္မဋ္ဌာန်း အားထုတ်၍ တရား ပေါက်ခါနီးသူ (တရားပေါက်၍ အရိယာဖြစ်နေသူ)တို့သည် မိမိတို့ ခန္ဓာကိုယ်ပေါ်မှာ တစ်ရံတစ်ခါ ကမ္မဋ္ဌာန်းစိတ်ဖြင့် ဆင်ခြင်ကြည့်သောအခါ ယခုပြခဲ့သောဉပမာသည် အကြမ်းစားမျှသာ ရှိပေလိမ့်မည်။

ဤခန္ဓာကိုယ်၌ ဇာတိမီးအစ မရဏမီးအဆုံးရှိသော မီးများအပြင် အချိန်ရှိသမျှ ခဏတိုင်း ပျက်နေသော ရုပ်နာမ်ခန္ဓာတို့၏ ပျက်နေပုံကို မြင်နေကြသော ယောဂီပုဂ္ဂိုလ်တို့ကား တစ်ကိုယ်လုံး ဒုက္ခမီးတွေ လောင်နေပုံကို မြင်နေကြသဖြင့် ရရှိဆဲ ခန္ဓာကိုယ်ကိုလည်း မနှစ်သက် မတွယ်တာနိုင်တော့ချေ။

နောင်တွင် ရဦးမည့် ခန္ဓာကိုယ်ကိုလည်း မမျှော်လင့်တော့ချေ၊ မလွဲသာ၍ ဖြစ်နေသော ဤရုပ်နာမ် ခန္ဓာကိုယ်၌ပင် ငြီးငွေ့လှလေပြီ၊ သူတို့ အလိုဆန္ဒ ဖြစ်နေကြသည်ကား ဤရုပ်နာမ်အားလုံးကို အပြီးသတ် ကုန်ဆုံးစေလိုခြင်းပင်တည်း။

**မှတ်ချက်။** ။ဆရာတော် အရှင်ဇနကာဘိဝံသ သည် ဤသို့လျှင် မြင်လွယ် ထင်လွယ်အောင် ဉပမာ ဉပမေယျတို့ဖြင့်လည်း ရေးပြတော်မူလေ့ ရှိသည်၊ ရုပ်နာမ်ခန္ဓာအပေါ်မှာ ယောဂီပုဂ္ဂိုလ်၏ ငြီးငွေ့ဖွယ်ရာ ဉာဏ်ဖြင့် မြင်ပုံ ထင်ပုံကို စုံစုံလင်လင် ဉပမာတင်၍ ရေးပြတော်မူခြင်း ဖြစ်၏။

# စာဖတ်မည့်သူဘက်ကို ကြည့်၍ ရေးလေ့ရှိခြင်း
## စာရေးတာ သူများသိဖို့

ဆရာတော် အရှင်ဇနကာဘိဝံသ၏အလေ့မှာ စာရေးသည့်အခါတွင် စာဖတ်မည့်သူဘက်ကို အမြဲတမ်း လှမ်းမျှော်ကြည့်လေ့ ရှိသည်၊ စာဖတ်မည့် ပရိသတ်နှင့် လိုက်လျောသောအဆင့်, သိနိုင်မည့် အခြေအနေမျှသာ တင်ပြရေးသားလေ့ ရှိသည်၊ သူတတ်သမျှ အစွမ်းကုန် ဖော်ပြရေးသားလေ့ မရှိ။

ဥပမာ - ရှင်သာမဏေငယ်များအတွက် ရေးသောစာမျိုး,အရပ်ထဲမှ ကလေးသူငယ်များအတွက် ရေးသော ရုပ်စုံဗုဒ္ဓဝင်တို့လို စာမျိုး, မူလတန်းကလေးများအတွက်ရေးသော ဗုဒ္ဓဘာသာလက်စွဲစာအုပ်မျိုး, အခြေပြုမင်္ဂလသုတ်တို့လို စာအုပ်မျိုးဆိုလျှင် ကလေးများ နားလည်လောက်မည့် အရပ်သုံးစကားလုံး လွယ်လွယ်ကလေးများဖြင့်သာ ရေးသားလေ့ရှိတော်မူသည်၊ ခက်လွန်းနေလျှင် ပြင်၍ ရေးတတ်၏။

ဤသဘောများကို စာချဘုန်းကြီး ဦးယောသိတက ပြန်လည် ပြောပြဖူးသည်။

သာမဏေငယ်များအတွက် ရုပ်ပုံရှင်ကျင့်ဝတ် စာအုပ်ရေးတော်မူတုန်းက စာချဘုန်းကြီး ဦးယောသိတအား ဆရာတော်က"သေခိယပါဠိနှင့်အနက်ကို ရေးခဲ့ရမည်"ဟု အမိန့်ချပါသတဲ့။

ဒီတော့ ဦးယောသိတက ... (ပရိမဏ္ဍလံ-ထက်ဝန်းကျင် ဝန်းဝိုင်းစွာ၊ နိဝါသေဿာမိ - သင်းပိုင်ကို ဝတ်အံ့၊ ဣတိ-ဤသို့၊ သိက္ခာ-သင်ခြင်း, ကျင့်ခြင်း, အားထုတ်ခြင်းကို၊ ကရဏီယာ-ပြုအပ် ပြုထိုက်၏။)

ဤမျှလောက်သာ အပြည့်အစုံ ရေးသားပြီးလျှင် နောက် အပိုဒ်များ၏ အဖျားသတ်တွင် အပိုဒ်တိုင်း အပိုဒ်တိုင်း (ဣတိ-သို့၊ သိက္ခာ-ကို၊ ကရဏီယာ-၏။) ဟူ၍ မြှုပ်ထားကာ အတိုချုပ်ရေးသား၍ ဆရာတော့်ထံ တင်ပြ လိုက်ပါသတဲ့။

ဒီအခါမှာ ဆရာတော်က စာမူတွေကို လှန်လှော ကြည့်ပြီး စာချဘုန်းကြီး ဦးယောသိတအား ချက်ချင်း မေးပါတော့သတဲ့။

**ဆရာတော်** ။ ။မင်း-ဒီစာအုပ်က ဘယ်သူတွေ ဖတ်မှာလဲ။

**စာချဘုန်းကြီး** ။ ။သာမဏေတွေ ဖတ်မှာပါဘုရား။

**ဆရာတော်** ။ ။ဟုတ်ပြီလေ, အဲဒီသာမဏေတွေက ဘယ်အရွယ်လောက်တွေ ဖြစ်မှာလဲလို့။

**စာချဘုန်းကြီး** ။ ။မှန်ပါ, ၁၀ နှစ် ၁၂ နှစ် ၁၃ နှစ် တို့လို အရွယ်တွေ ဖြစ်မှာပါဘုရား။

**ဆရာတော်** ။ ။အေး-ဟုတ်ပြီ၊ အဲဒီအရွယ်တွေက မင်းမြှုပ်ပြီးရေးထားတဲ့ စာတွေကို ဖော်ထုတ်ပြီး ဖတ်နိုင်စွမ်း ရှိပါ့မလား။

**စာချဘုန်းကြီး** ။ ။ဒီအရွယ်ကလေးတွေဆိုတော့... ပေယျာလ မဖော်တတ်သေးဘူး ထင်ပါတယ်ဘုရား။

**ဆရာတော်** ။ ။အေး, ဒါကို ဘုန်းကြီးက ပြောချင်တာပဲ၊ စာဆိုတာ သူများသိဖို့, သူများ နားလည်ဖို့ ရေးတာ၊ ဖတ်မည့်သူ နားလည်မှ ကောင်းတာ၊ နားလည်နိုင်လောက်အောင် ကိုယ်က ရေးပြနိုင်ရမယ်၊ ကိုယ့်စာကို ဖတ်မည့် ပရိသတ်အရွယ် အခြေအနေကိုလဲ လှမ်းကြည့်ရသေးတယ်၊ ဒါ့ကြောင့်မို့ မမြှုပ်ပါနှင့်, အကုန် ပြန်ဖော်ရေးပါ"ဟု အမိန့်ချပါသတဲ့။

## ဖတ်မည့် အဆင့်ကို လှမ်းကြည့်၍ ရေး

ထို့ပြင်လည်း "စာရေးတဲ့အခါမှာ မိမိက ဘယ်လို ပရိသတ်တွေအတွက် မှန်းပြီး ရေးတာလဲ, ငယ်ငယ်တွေ အတွက်လား, ရွယ်ရွယ်တွေ အတွက်လား, ကြီးကြီးတွေ အတွက်လား၊ ငယ်ငယ်တွေအတွက်ဆိုရင် သူတို့နားလည်ရုံ, သူတို့ လက်ခံနိုင်ရုံလောက်ပဲ ရေးရတယ်၊ ကိုယ်တတ်သလောက် လက်စွမ်းမပြလိုက်ရဘူး၊ သူတို့ မမီတဲ့အဆင့်ကို သွားပြီး မရေးရဘူး, ရေးရင် သူတို့ နားမလည်တာနဲ့ ကိုယ့်စာမကောင်းဘူး ဖြစ်သွားမယ်၊ ကြီးတဲ့ သူတွေအတွက်ဆိုရင်တော့ သူတို့က ဗဟုသုတတွေ ရှိလာပြီဖြစ်လို့ လေးလေးနက်နက် ခံ့ခံ့ညားညား ရေးပေးရတယ်" စသည်ဖြင့် အမိန့်ရှိပါသေးသတဲ့။

ဤသို့လျှင် ဆရာတော်က တစ်ဖက်သား၏ အခြေအနေကို မြင်၍ ထင်၍ ကြည့်၍ လှမ်းမျှော်၍ ရေးပြတော်မူလေ့ရှိရကား စာဖတ်ပရိသတ်များက နားလည်ကြသဖြင့် "အရှင်ဇနကာဘိဝံသရေးတဲ့ စာဆိုရင် ကောင်းသည်"ဟု ပြောကြခြင်း ဖြစ်ပေသည်။

## ယူတတ်သောသူ ရကြစေဟူသကဲ့သို့ စာရေးနည်း သင်ပေးခြင်း

တစ်ခါကလည်း ယင်းစာချဘုန်းကြီး ဦးယောသိတအားပင် စာတစ်ခု အဖတ်ခိုင်းဖူးသည် ဆို၏၊ အချိန်မှာ သာသနာတော် သန့်ရှင်းပြန့်ပွားရေး မော်ဘီအစည်းအဝေး အကြိုရက်ပိုင်းအတွင်းက ဖြစ်သည်၊ ဌာနမှာ ရန်ကုန်မြို့ ကမ္ဘာအေးကုန်းမြေ ပုဗ္ဗဝိဒေဟကျောင်းဆောင်တွင် ခေတ္တ တည်းခိုသီတင်းသုံးနေတော်မူခိုက် ဖြစ်၏၊ တစ်နေ့သောအခါတွင် သက်န်းတစ်စုံကို အနီးရှိ စားပွဲပေါ်တွင် တင်ထား၍ ဆရာတော်က စာချဘုန်းကြီး ဦးယောသိတအား အခေါ်ခိုင်း၏၊ ရောက်လာသောအခါ စာလေးငါးကြောင်းမျှ ရေးထားသော စာရွက်ကို ပေး၍ အဖတ်ခိုင်းသည် ဆို၏။

"ဤသင်္ကန်းကို ဝိဇ္ဇောတာရုံကျောင်းသို့ သွားပို့ပါ၊ ဝိဇ္ဇောတာရုံမှတစ်ဆင့် ကျောက်ကုန်း မဟာဗောဓိကျောင်းတိုက်သို့ နီညိုရင့်ရောင် ဆိုးပေးဖို့ရန် သွားပို့ပါစေ"

စာကို ဖတ်ပြီး/မပြီး ကြည့်နေပြီးလျှင် ဖတ်ပြီးသောအခါ ဆရာတော်က ဆက်လက် မေးခွန်း ထုတ်တော်၏။

**ဆရာတော်** ။ ။မင်း- ဒီစာကို ဘယ်လို သဘောပေါက်သလဲ။

**စာချဘုန်းကြီး** ။ ။ဒီ သင်္ကန်းကို ပထမ ဝိဇ္ဇောတာရုံကျောင်းကို သွားပြီးပို့ရမှာပါဘုရား, အဲဒီနောက် ဝိဇ္ဇောတာရုံကတစ်ဖန် ကျောက်ကုန်း မဟာဗောဓိကျောင်းတိုက်သို့ နီညိုရင့်ရောင် ဆိုးဖို့ရာ ထပ်ဆင့် ပို့ရမှာပါဘုရား။

**ဆရာတော်** ။ ။အေး-ဟုတ်ပြီ၊ ဘုန်းကြီးကလဲ ဒီ အဓိပ္ပာယ်ရေးတာပဲ, ဒါဆို မင်း နားလည်သွားပြီ၊ ကဲ-သွားပို့ချေ" ဟူ၍ မိန့်ပါသတဲ့။

**မှတ်ချက်** ။ ။အမှန်မှာ စာရေးရာတွင် တစ်ဖက်သား နားလည်ဖို့ အရေးကြီး၏၊ မိမိရေးသားသည့်အတိုင်း သဘောပေါက်ဖို့လည်း အရေးကြီးသည်၊ တလွဲ သဘောပေါက်နေလျှင် ရေးရကျိုးမနပ်။

ထို့ကြောင့် သဘောပေါက်/မပေါက် စမ်းသပ်ခြင်း ဖြစ်၏၊ တစ်နည်းအားဖြင့် "မင်းတို့တစ်တွေ စာရေးချင်ရင် တစ်ဖက်သား နားလည်အောင် ရေးရတယ်"ဟု ပြောပြသည်နှင့်လည်း အတူတူပင် ဖြစ်၏၊ စာရေးနည်း သင်ပေးခြင်းပင် ဖြစ်သည်။

"ယူတတ်သောသူ ရကြစေ"ဟူသကဲ့သို့ သင်ပေးနေခြင်း ဖြစ်၏၊ သို့သော် သူ့တပည့်ကြီးကား သူ့ကို သင်ပေးနေတာမှန်း သိမှ သိပါလေစ။

## အခက်အခဲကို ဖျက်ခွဲဖြေရှင်းပေးလေ့ရှိသတဲ့ ကျေနပ်အားရ မြတ်နိုးကြခြင်း

သတ္တိကောင်းသော လှည်းမောင်းသမား တစ်ယောက်သည် မိမိ သွားနေကျ လမ်းတွင် မည်သည့်နေရာမှာ ကျင်းရှိသည်, ချိုင့်ရှိသည်၊ မည်သည့်နေရာမှာ ကုန်းရှိသည်, ကမူရှိသည်၊ မည်သည့်နေရာမှာ ငုတ်ရှိသည်, ခလုတ်ရှိသည်ဟု သိထားသဖြင့် မိမိကိုယ်တိုင်လည်း ရှောင်လွှဲ၍ သွားနိုင်, သူတစ်ပါးကိုလည်း လွတ်ကင်းအောင် ညွှန်ပြနိုင်၏၊ ထို့အတူ ဆရာတော်ကလည်း ပိဋကတ်သုံးသွယ် နိကာယ်ငါးဖြာ သမုဒ္ဒရာကြီးကို အခါခါ အခေါက်ခေါက် မွှေနှောက်လှည့်ပတ် ထွင်းခတ် ထိုးဖောက်ထားသူဖြစ်၍ မည်သည့်နေရာမှာ အဖုအထစ် အဆစ် အမြစ်, မည်သည့်နေရာမှာ အထုံးအဖွဲ့ အခက်အခဲ, မည်သည့်နေရာမှာ မရေမရာ ဇဝေဇဝါဟူသော အချက်ကလေးများကို သိထားတော်မူ၏၊ ထို့ကြောင့် ဆရာတော်က မိမိ ရေးသားသော ကျမ်းစာများတွင် ယင်း အချက်ကလေးများသို့ ရောက်သောအခါ (မိမိကဲ့သို့ အခဲအကပ် ပြဿနာ ပေါ်လိမ့်မည်ဟု မျှော်ခေါ်၍) ထိုပြဿနာကလေးများကို ဖြေရှင်းပြထားတော်မူတတ်၏၊ သို့မဟုတ် စဉ်းစားတွေးခေါ်ဖို့ရန် သတိပေးထားတတ်သည်၊ အများသူငါတို့သည် ပိဋကတ်ကို လေ့လာသောအခါ အဖုအထစ် အထုံးအဖွဲ့ အခဲအကပ် ပြဿနာကို တွေ့ကြ၍ ကြံရာမရ ဖြစ်ကြလျှင် အရှင်ဇနကာဘိဝံသ၏ စာအုပ်ကို လှန်၍ ကြည့်တတ်ကြကုန်၏၊ ထိုအခါ အခဲအကပ်ကို သပ်သပ်ရပ်ရပ် ရှင်းပြထားသဖြင့် အားရ ကျေနပ်မှု ဖြစ်ကြရတော့သည်။

## ကျေးဇူးတင်၍ မဆုံးပါတဲ့

စာပေအခက်အခဲမျှသာမက ဘဝ၏ အခက်အခဲ, ဘဝ၏ အထုံးအဖွဲ့ ပြဿနာ အရပ်ရပ်ကိုလည်း ဆရာတော်၏ စာများက ဖြေရှင်းပေးတတ်သေးသည် ဟူ၏၊ ဆရာတော်၏ စာများကို ဖတ်၍ ဘဝပြဿနာ ပြေသူပေါင်း, အခက်အခဲကို ဖြေရှင်းနိုင်သူပေါင်း, အယူအဆပြောင်း၍ အသိအမြင် ကြည်လင်လာသူပေါင်း များစွာ ရှိကြ၏၊ ထိုထို မြို့ရွာ နယ်ပယ် အရပ်ရပ်မှ ဆရာတော်ထံ ဝန်ခံရောက်လာကြသော စာတို့အရ သိနိုင်ရပေသည်။

ထိုအထဲတွင် တောင်တွင်းကြီးမှ "ဦးလွင်"ဆိုသော ကျောင်းဆရာကြီးတစ်ယောက်ကမူ သူ့ဘဝကို "ဆရာတော်၏ လင်္ကာကလေး တစ်ပုဒ်က ပြောင်းလွှဲပေးသည်" ဟု ဝန်ခံလာ၏၊ သင်္ဂြိုဟ်ဘာသာဋီကာ၌ဖော်ပြထားသောမဂ်က ကိလေသာ အသီးအပွင့်တို့ကို ချွေပုံပြသောလင်္ကာလေးကလေး ပင်တည်း၊ ယင်းကို သဘောကျလွန်း၍ ခဏခဏ ရွတ်ဆိုကာ ဆရာတော်အား ကျေးဇူးတင်၍ မဆုံးအောင် ဖြစ်ရပါသတဲ့၊ ထိုလင်္ကာမှာ…

**"သစ်ပင်ကြီးကို, သီးမလို၍, ထိုထိုကြိတ်နင်း, အဆိပ်သွင်းက, အတွင်းခြောက်ပြီး, နောက်မသီးသို့, ဤနည်းပမာ, ပင်ခန္ဓာဝယ်, ထပ်ကာကိလေ, မသီးစေဖို့, လေးထွေမဂ်ဟု, အဆိပ်စုဖြင့်, ကြိတ်ထုသွင်းလတ်, အနုသယပြတ်သည် … နောက်ထပ်မဥပါဒ်နိုင်တော့ပြီ"**

ဤနည်းအားဖြင့် ဆရာတော်၏ စာအုပ်များသည် လေးလေးနက်နက် တွေးတတ်သူ စိစိစပ်စပ်ပြုတတ်သူတို့အတွက် အခက်အခဲကို ဖျက်ခွဲဖြေရှင်းပေးနိုင်စွမ်းရှိသဖြင့် သူတော်ကောင်းများတို့အား ကျေနပ်အားရ မြတ်နိုးစေနိုင်ကြကုန်၏။

ထို့ကြောင့် အချို့က ဤသို့ ဆိုကြသည်၊ "အရှင်ဇနကာဘိဝံသ စာအုပ်တွေဟာ ဖတ်လို့ ကောင်းပါရဲ့, လေ့လာလို့လည်း ကောင်းပါရဲ့၊ ဒါပေမယ့် ဉာဏ်တုံးသွားစေတယ်၊ ဘာကြောင့်လဲဆိုတော့ သူက အကုန် ဖြေရှင်းပြထားလို့ အသစ် ထပ်မံ အပင်ပန်းခံ ကြံစရာ မလိုသောကြောင့်"… ဟူသတည်း။



"ဘုန်းကြီးက သာသနာကို
စိတ်ကြိုက်ပြုပြင်လို့ မရရင်
ကျမ်းစာတွေ ရေးထားခဲ့မယ်"



"ဒီလာဘသက္ကာရသိလောကတွေဟာ
ကျောင်းပေါက်ဝကို ရောက်နေပြီ၊
သတိထားကြ၊ အကပ်မခံနဲ့"

## စာရေးသောကလောင်ကား မည်သို့နည်း

### ဆရာတော့်ကလောင်မှာ ခဲတံသာ

ရှေးက ဆရာတော်ကြီးများ စာရေးသားရာ၌ ပေရွက်ပေါ်မှာ ရေးကြရသောကြောင့် သံချွန်ကညစ်ဖြင့် ရေးတော်မူကြရကုန်၏၊ နောက်ပိုင်းသို့ ရောက်လာသောအခါ ပုရပိုက် ပေါ်လာသဖြင့် ကန့်ကူဆံကို ကန့်ကူတံတွင်တပ်ကာ ရေးလာကြရ၏၊ ပို၍ လွယ်ကူလာပေမည်၊ ထို့နောက် ဥဒေါင်းငှက်မှ ကျွတ်လာသော ဒေါင်း၏ အတောင်ဖြင့် မင်တွင် နှစ်၍ နှစ်၍ စာရွက်ပေါ်တွင် ရေးသားလာကြပြန်သည်။

ဤသို့လျှင် ခေတ်အဆက်ဆက် ပြောင်း၍ ဖောင်တိန် ခဲတံ ဘောလ်ပင် အဆင့်များသို့ ရောက်ကာ ယခုအခါ ရေးသားစရာ ကိရိယာတွေ ထို့ထက် ပေါများကြလေပြီ။

သို့ရာတွင် ဆရာတော် အရှင်ဇနကာဘိဝံသ ကျမ်းပြုသောအခါ၌ အသုံးပြုသော စာရေးကိရိယာမှာ "ခဲတံ"သာလျှင် ဖြစ်၏၊ ယခုခေတ်တွင် ဖောင်တိန် ဘောလ်ပင် မင်ချောင်း စသည် အမျိုးမျိုး ပေါများသော်လည်း ဆရာတော်ကား အသုံးမပြုပေ၊ ဆရာတော် အသုံးပြုသည်ကား "ခဲတံ"ပင် ဖြစ်၏၊ စားပွဲတွင် မတ်တတ်ရပ်၍ ခဲတံဖြင့် ရေးတော်မူလေ့ရှိသည်။

စာရေးခါနီးပြီဆိုလျှင် ခဲတံ ၁၀ ချောင်း၊ ၁၅ ချောင်းခန့်ကို အသင့်ချွန်ထားသည်၊ စာရေးနေဆဲအခါတွင် ရပ်နား၍ ခဲတံချွန်ရလျှင် ပေါ်လာပြီးသား စိတ်ကူး စိတ်သန်းများ ပျောက်ကွယ်ကုန်မည်စိုးသောကြောင့် ဖြစ်၏။

ထို့ကြောင့် များများချွန်ထားလိုက်၏၊ ခဲတံကို အသုံးပြုခြင်းဖြင့် ရနိုင်သော အကျိုးများမှာ...

၁။ လွဲမှားသွားသော စာကို ခဲဖျက်ဖြင့် ဖျက်၍ ပြန်ရေးရာ၌ လွယ်ကူခြင်း၊
၂။ မင်မထည့်ရသဖြင့် လက် စသည်၌ မင် မပေခြင်း။
၃။ ပျောက်ဆုံးသွားလျှင်လည်း ခဲတံမှာ နှမြောစရာ မရှိခြင်း၊
၄။ စာရေးကိရိယာပေါ်၌ မက်မောစရာ မရှိ၍ တွယ်တာမှု နည်းပါးရခြင်း၊
၅။ ပေါ်များ၍ ရလွယ်သော ပစ္စည်းဖြစ်ခြင်း စသည်တို့ ဖြစ်ကြ၏။

ဆရာတော်က ခဲတံဖြင့် စာရွက်အကြမ်းပေါ်တွင်ရေးထားသော မူကြမ်းကို တာဝန်အပေးခံရသော တပည့်က စာရွက်အနုပေါ်တွင် မင်ဖြင့် သပ်သပ်ရပ်ရပ် မူချောအဖြစ် ရေးကူးပေးရသည်၊ အစိပ်အကျဲ အထားအသို အဖွင့်ကော်မာ အပိတ်ကော်မာမှ စ၍ တစ်ချောင်းပိုဒ် နှစ်ချောင်းပိုဒ် စသည်တို့ကိုကား ဆရာတော် ရေးပြထားသည့် အတိုင်းပင် အချောကူးပေးရခြင်း ဖြစ်သည်။

## စာအုပ်သွင်ပြင် ယဉ်ယဉ်စံ့စံ့ သန့်သန့်လှလှ
## လူမှာ အဝတ်၊ တောင်းမှာ အကွပ်

ကျမ်းပြုရာ၌ ဆရာတော်က မူကြမ်းရေး၊ တပည့်တို့က အချောကူးပေးရသည်၊ ကျမ်းစာတစ်အုပ် ပြီးလျှင် မူချောအဖြစ် ရေးကူးထားသော စာရွက်အထပ်တို့ကို (စာအုပ်ကဲ့သို့) ဖောက်တွဲ၍ ဆရာတော့်ထံ အပ်နှံရ၏၊ ယင်းစာမူတို့ကို ဆရာတော်က ပြန်လည်၍ ကြည့်ရှုသုံးသပ်ပြန်သည်၊ ပိုသည်ကို ဖျက်၍ လိုသည်ကို စွက်တော်မူသည်၊ ပြန်လည် ပြုပြင်မှုများသော စာရွက်တို့ကို အချောထပ်မံ၍ ကူးရပြန်သည်၊ အကြိမ်ကြိမ် ပြင်ဆင်ဖြည့်စွက်၍ အားရကျေနပ်ပြီဆိုမှ စာပုံနှိပ်စက်သို့ တင်သည်။

စာပုံနှိပ်စက်တွင် စာစီရမည့် ပုံပန်း အနေအထားကိုလည်း အစကတည်းက မူကြမ်းတုန်းကပင် ဆရာတော် ပြထားသည့်အတိုင်း စီကြရ၏၊ ဆရာတော် မကြိုက်လျှင် ပြင်၍ စီပေးကြရသည်၊ ဆရာတော်ကား စာရေးတတ်ရုံသာမက ပန်းချီမျက်စိပါ အမြင်ရှိသည်၊ စာအုပ်အရွယ်အစား အနေအထားနှင့် လိုက်အောင်၊ ကြည့်၍ ကောင်းအောင် စီမံတတ်၏၊ (အလံ ကာတုံ၊ အလံသံဝိတာတုံ) အင်္ဂါစုံနေခြင်းပင် ဖြစ်သည်။

ထို့ကြောင့်ပင်စာအုပ်ကလေးများထွက်လာတိုင်း ထွက်လာတိုင်း ကျကျနန လှလှပပ ခံ့ခံ့ထည်ထည် ကြည်ညိုဖွယ်ကလေးများချည်း ပေါ်ထွက်လာကြခြင်း ဖြစ်ပေသည်၊ ဤကား "လူမှာ အဝတ်၊ တောင်းမှာ အကွပ်"ဟူသကဲ့သို့ သူ့နေရာနှင့်သူ အမြင်လှအောင် ဆင်သနိုင်ခြင်းပင် ဖြစ်ပေသည်၊ မှတ်မိပါသေးသည်၊ "အနာဂတ်သာသနာရေး"ကျမ်းစာအုပ်ကလေး ပထမဦးဆုံးအကြိမ် ထွက်ပြီးစက ဖြစ်၏၊ ရန်ကုန်မှ သတင်းစာဆရာ မဂ္ဂဇင်းဆရာများ ကိုးဦးဆယ်ဦးမျှ ရောက်လာကြဖူး၏၊ ခရီးကြုံခိုက် တွင်ဂန္ဓာရုံတိုက်သို့လည်း ဝင်လာကြသည်၊ "ဘာ ကိစ္စလာကြသလဲ"ဟု ဆရာတော်က မေးရာ...

"တပည့်တော်တို့ ဆရာတော့် စာအုပ်ကလေးတွေ ဖတ်ရတယ်ဘုရား၊ စာသားကတော့ ဆရာတော့် လက်ရာမို့ ယုံကြည်ပြီးသားပါ၊ ဒီမှာ စာအုပ်အသွင်အပြင်တို့ စာအနေအထားတို့က သားသားနားနားနှင့် ခေတ်မီနေတာကို တွေ့ရလို့ ရိုက်တဲ့စက်ကြီးက ဘယ်လောက် ကောင်းနေလို့လဲ၊ လုပ်သားတွေက ဘယ်လောက်များများ ဝိုင်းဝန်းပြုပြင်မွမ်းမံပေးနေကြလို့လဲဆိုတာ သိချင်လို့ အခုလိုကြုံတုန်း ဝင်လာကြတာပါဘုရား"ဟု လျှောက်ထားကြ၏။

## လူနှစ်ယောက်နှင့်စက်ကလေးတစ်လုံး

ထိုအခါ ဆရာတော်က... "စာနေစာထားနှင့် စာအုပ် အသွင်အပြင် အဆင်ပြေအောင် စီမံပေးတာကတော့ ဘုန်းကြီးပါပဲ၊ အဲ-ရိုက်တဲ့စက်ကြီးက ဘယ်လောက်များကြီးသလဲဆိုတာ သိချင်ရင် လိုက်ခဲ့ကြ"ဟု ဆိုကာ ဆရာတော်က ဦးဆောင်၍ စာရေးဆရာတို့ကို စာပုံနှိပ်စက်ရှိရာသို့ ခေါ်သွားပါတော့သည်၊ စာပုံနှိပ်စက်သို့ ရောက်သောအခါ သတင်းစာဆရာ စာရေးဆရာတို့အားလုံး အံ့အားသင့်ကြရတော့၏။

အဘယ့်ကြောင့်ဆိုသော် သူတို့ သိချင်နေသော စက်ဆိုသည်မှာ ဧရာမစက်ကြီး မဟုတ်၊ တစ်ရွက်ချင်း ရိုက်ရသော ခြေနင်းစက်ကလေး အသေးစားမျှသာ ဖြစ်နေ၏၊ စက်ထားသော အလုပ်ရုံမှာလည်း ဝါးထရံကာ ဝါးကပ်မိုး၍ အမိုး မလုံ့တလုံ၊ လုပ်သားများ ဆို၍လည်း ချောပိုနှင့်မောင်ဆိုင် လူရွယ်နှစ်ယောက်မျှသာ လုပ်ကိုင်နေသောကြောင့်တည်း။

နောက်ပိုင်းတွင်ကား ထိုသို့ မဟုတ်ပါတော့ချေ၊ အလုပ်လုပ်၍ အဆင်ပြေသော စက်တစ်လုံး ရလာပါတော့သည်၊ ဆရာတော်နှင့် ရင်းနှီးသော ရန်ကုန်မြို့မှ ဒကာ ထိန်ဝင်းနှင့် မောင်နှမတစ်စုတို့က အစိုးရထံ သွင်းကုန်လိုင်စင် တောင်းပြီးလျှင်...



ကျွမ်းပေါင်းများစွာ ရိုက်နှိပ်ပေးခဲ့သော မဟာဂန္ဓာရုံမှ စက်ကလေး

အမေရိကန်မှ စာပုံနှိပ်စက်တစ်လုံး တိုက်ရိုက်မှာယူခဲ့၏၊ ထိုစက်ကို ၁၃၁၆ ခု ကဆုတ်လဆုတ် ၁၀ ရက် (၁၉၅၀ ပြည့် မေလ ၂၇ ရက်)နေ့က လှူဒါန်းခဲ့ရာ ယခုအချိန်အထိ ထိုစက်ဖြင့်ပင် အလုပ်လုပ်နိုင်ခဲ့ပါသည်၊ မူလ အသုံးပြုခဲ့သော စက်ကိုလည်း ဆိုင်ရာ ပိုင်ရှင်များလက်သို့ ပြန်လည် ပေးအပ်လိုက်တော့၏။

## စာမူသန့်သန့် ဖြစ်စေချင်တဲ့ စေတနာ

မန္တလေးမြို့ လှခင်အင်ဆန်း စာပုံနှိပ်တိုက်ပိုင်ရှင် ဦးပန်းရည်က ပြောပြဖူးသည်။

"အရှင်ဇနကာဘိဝံသလို ကိုယ်တော်မျိုးကတော့ တွေ့ဖူးပေါင်ဗျာ၊ တစ်မျိုးပါပဲ"တဲ့၊ ဘယ်လို တစ်မျိုးလဲ၊ ပြောပြပါဦး" ဆိုတော့...

"ဒီလိုဗျ၊ ကျွန်တော့် စာပုံနှိပ်စက်ကို လာအပ်ကြတဲ့သူတွေဟာ တစ်ဖောင်ကို စာစီခ ဘယ်လောက်လို့ ပြောလိုက်ရင် ဈေးဆစ်ကြတာချည်းပဲ၊ အဲ-သူကတော့ မဟုတ်ဘူး၊ တစ်မျိုးပဲ၊ ကျွန်တော်က ထုံးစံအတိုင်း စာတစ်ဖောင်ကို ဘယ်လောက်လို့ ပြောလိုက်တယ်၊ အဲဒါ သူက ပိုပေးနေတယ်၊ ပြီးတော့ သူက ပြောသေးတယ်"

စာမူကြမ်းပရူကိုလည်း သူကိုယ်တိုင်ပဲ ပြင်ပါရစေ၊ စစ်ပါရစေ"တဲ့၊ "ဟောဗျ- ဒီထက်ကောင်းတာ ဘာရှိသေးလဲ၊ ကျွန်တော့်ဘက်က စာစီခလည်း ပိုရသေး၊ စာမူကြမ်းပရူပြင်တဲ့ အယ်ဒီတာခလည်း သက်သာသွားသေး။

အဲ-သူ့ဘက်က ဘာလိုချင်သလဲဆိုရင် သူကိုယ်တိုင် သူ့စိတ်ကြိုက် စာနေစာသား သန့်သန့်ဖြစ်အောင် ပြင်ရရေးအတွက် ပိုပေးတာပဲ။ အဲလောက် စေတနာပါ၊ စာမူသန့်သန့် ဖြစ်စေချင်တဲ့ စေတနာပေါ့လေ"တဲ့ ဦးပန်းရည်က ပြောပြပါသည်။

## အရှင်ဇနကာဘိဝံသ၏ စာချဟန်

### သူ့အိုးနှင့်သူ့ဆန် တန်ရုံမျှထည့်

ဆရာတော် အရှင်ဇနကာဘိဝံသ၏ စာချဟန်မှာ အင်းဝခေတ် အရှင်မဟာရဋ္ဌသာရတို့၏ "အခြေပါဒ, သင်ဦးစဥ်, ချနည်းမကျယ်, မိပ္ပာယ်ကောင်းစွာ, လိုရုံသာဖြင့်, အပ်ရာမသည်း, နားထွင်းနည်းသို့"ဟူသော စနစ်ပင်ဖြစ်သည်၊ သင်ယူခါစ တပည့် တစ်ယောက်အား အဓိပ္ပာယ်များစွာ မပြောသေးဘဲ နားဆံ့ရုံမျှသာ နည်းနည်း ပြော၏၊ လွယ်လွယ်သာ ပြော၏၊ သူ့အိုးနှင့်သူ့ဆန် တန်ရုံ ထည့်၍ ချက်ဟူသကဲ့သို့တည်း၊ ဆရာတော်သည် မဟာဂန္ထာရုံကို စာသင်တိုက်အဖြစ် ပြောင်းလွှဲ၍ အားယူခါစ ခါသမယက စာဝါဟူသမျှကို အကုန် ကိုယ်တော်တိုင် ပို့ချပေး၏၊ ပထမဦးစွာ ကိုရင်ကလေးအတွက် မူလတန်းသို့ ဝင်၍ သင်ပေးသည်၊ ပြီးလျှင် အလယ်အလတ် အရွယ်များ၏ အတန်းသို့ ဝင်၏၊ နောက်ဆုံးမှ အထက်ပိုင်းကျသော အတန်းမြင့်များသို့ ဝင်၍ သင်ပေးတော်မူသည်။

ဆရာတော်၏ စာချဟန်ကို ယခုအခါ မြင်းမူမြို့နယ် ထီးဆောင်ရွာတွင် သီတင်းသုံးတော်မူနေသော ဘုန်းတော်ကြီး ဦးစက္ကပါလက ပြန်လည် ပြောပြပါ၏၊ ဘုန်းတော်ကြီး ဦးစက္ကပါလသည် ဆရာတော်၏ နည်းစနစ်ကို ရလိုသောကြောင့် ထိုစဉ်က ဆရာတော်ထံသို့ ချဉ်းကပ်လာခြင်းဖြစ်ရာ ဆရာတော် ချသမျှ စာဝါများကို အသေးအမွှားကစ အကုန်လိုက်သည်၊ ဆရာတော်က ကလေးတန်းသို့ သွား၍ စာချလျှင် ဘုန်းတော်ကြီးဦးစက္ကပါလသည် ကလေးတွေ နောက်နားက သူလိုက်လျက် ရှိ၏၊ အလတ်တန်းသို့ သွား၍ ချပြန်လျှင် သူပါပြန်သည်၊ အကြီးတန်းကို ချရာ၌ကား သူက ရှေ့က အမြဲတည်း။

"ဆရာတော်က အံ့ဩစရာကောင်းတယ်ကွ, ကလေးတွေကို စာချတုန်းက သူပြောတဲ့ စကားလုံးတွေဟာ တကယ့်ကလေးလိုပဲ၊ ကလေးတွေ ပြောနေကျစကားလုံး, ကလေးတွေ နားလည်လောက်တဲ့ အောက်ဆုံးအဆင့်က စကားလုံးများနှင့် စိတ်ပါလက်ပါ ပြောနေတာ၊ ပြီးတော့ ကိုရင်ကလေးတွေ အပေါ်မှာ သူစိတ်ရှည်တယ်၊ တကယ် အဖေကြီးလို ကျနေတာပဲ"တဲ့။

"အဲဒီ ကလေးတန်းက ပြီးလို့ လူလတ်ပိုင်းအတန်းကို ဝင်လာတော့၊ ဟော-စကားလုံးတွေက နည်းနည်း မြင့်လာပြီ၊ စိတ်ဝင်စားစရာ ကောင်းအောင်လဲ ပြောပြနေပြီ၊ အဲ-နောက်ဆုံး တို့ အကြီးတန်းတွေ ရောက်ပြီဆိုတော့ သူ့နှုတ်က ထွက်တဲ့ အနက်အဓိပ္ပာယ်တွေဟာ အတော့်ကို မြင့်ကုန်ပြီ၊ နက်ရှိုင်းကုန်ပြီ၊ အဲလို-သူ့အရွယ်နှင့် သူ, သူ့အဆင့်နှင့်သူ ပြောပြောပြီး သင်တာကွ"တဲ့။

### မေးပုံ ခက်တော့ နက်နက် ဖြေသည်

ဘုန်းတော်ကြီး ဦးစက္ကပါလက ဤသို့ ပြန်လည် ပြောပြ မှတ်ချက်ချပါ၏၊ ဟုတ်ပါသည်၊ စာချရာ၌သာ ဆရာတော်က ဤသို့ကျင့်သုံးသည် မဟုတ်သေးပါ၊ ပြဿနာကို မေးရာ၌လည်း ဤအတိုင်း ပင်ဖြစ်ပါ၏၊ ကမ္ဘာအေး သာသနာရေး ဦးစီးဌာနမှ ညွှန်ကြားရေးမှူးတစ်ယောက်ကလည်း ဤသို့ပင် မှတ်ချက်ချဖူးသည်။

"ဆရာတော် အရှင်ဇနကာဘိဝံသထံ ရောက်သွားဖူးတယ်၊ ရောက်တုန်းကြုံတုန်း မရှင်းတဲ့ အချက်အလက် ပြဿနာကလေးတွေ မေးဦးမှပဲ ဆိုပြီး ပထမ လွယ်လွယ်ကလေး မေးလိုက်တယ်၊ ဆရာတော်က လွယ်လွယ်ကလေး တိမ်တိမ်ကလေးပဲ ပြန်ဖြေတယ်။

ဒါနဲ့ နည်းနည်းမြင့်တဲ့ ပြဿနာကိုမေးတော့ သူ့အဖြေကလဲ ပိုပြီးမြင့်လာတာပဲ၊ အဲဒီနောက် တော်တော်မြင့်တဲ့ ခက်ခဲတဲ့ ပြဿနာကို တင်လိုက်တော့ အို့ဖြေလိုက်သမှ ခက်ခက်ခဲခဲရော နက်နက်နဲနဲရော ဝက်ဝက်ကွဲပါပဲ။"

ဆရာတော့်အပေါ်တွင် ထိုအရာရှိကလည်း ဤသို့င်း မှတ်ချက်ချ၍ ပြောပြဖူးလေသည်၊ ဆရာတော်၏ မူဝါဒနှင့် ကျင့်သုံးမှုကား ဤသို့သာတည်း။

## မေး၍ မေး၍ သင်တဲ့နည်း

ဆရာတော်က ပညာသင်ပေးရာတွင် တပည့်တို့ကို "ပိုမွေးရာ၌ကဲ့သို့ ရက်သား, လသား, နှစ်သား" တစ်ကန့်စီ ခွဲခြား၍ အဆင့်အတန်းအလိုက် ဉာဏ်အနုအရင့်အလိုက် ဂရုစိုက်၍ ချပို့ပေးတော်မူ၏၊ မြန်မြန်တတ်စေလို၍ ချက်ချင်းကြီးထွားလာအောင် နတ်ရေကန်ထဲသို့ ပစ်ချပေးသောနည်းမျိုး မဟုတ်ပေ။

"တရွေ့ရွေ့ ရင့်လာပြီး အချိန်ကျမှ မှည့်သော သစ်သီးသာ ချို၏၊ မရင့်မီ အလျှဉ်လို၍ ဆွတ်ခူးပြီး အုပ်သောသစ်သီးကား မချိုနိုင်"ဟူသည်ကို သတိပြုတော်မူကာ ဆရာတော်၏ သင်နည်းစနစ်မှာ တဖြည်းဖြည်း ဉာဏ်ရင့်လာအောင် ပြုစုပျိုးထောင် ပေါင်းနွေးပေးသော နည်းသာ ဖြစ်လေသည်။

တဖြည်းဖြည်း ကိုယ်ငွေ့ပေး၍ အနွေးဓာတ်ရအောင် ရင်အုပ်ဖြင့် ပေါင်းခံပြီးလျှင် အချိန်တန်မှ မိမိ၏ ဥတို့ကို ပေါက်လာစေသော မိခင်ကြက်မကြီး၏ နည်းမျိုးကဲ့သို့ ဖြစ်တော့၏။

ထို့ပြင် ဆရာတော်က ပါဠိတော် အဋ္ဌကထာ တစ်ခုခုကို ချပို့ရာတွင်လည်း အနက်ထင်ရုံမျှသာ ပဓာနထားပြီး ချပို့နည်းမျိုးကို မသုံးပါ၊ သင်ယူပြီး အကြောင်းအရာ တစ်ခုလုံးကို ငုံခြုံ၍ စု၍ မည်သို့ အဓိပ္ပာယ်ယူရမည်နည်း၊ မည်သို့ ကောက်ချက်ချမည်နည်းဟူ၍ မေးကာ မြန်းကာ သင်တတ်ပါ၏၊ တစ်ခါတစ်ရံတွင် ရှေ့နောက် ထောက်ဆ၍ အဓိပ္ပာယ် ယူဆရပုံနည်း, တစ်ခါတစ်ရံတွင်လည်း ဤပါဠိမှ မြန်မာဘာသာသို့ စကားပြေချောချောမည်သို့ ပြန်မည်နည်း၊ ပြန်ဆိုပြပါဟူ၍ လက်တွေ့ခိုင်းတတ်၏။

ဆရာတော့်စာချဟန်မှာ အတွေးဝင်လာအောင် စဉ်းစားဉာဏ်တိုးလာအောင် အသိပညာ ကြွယ်လာအောင် ရေလာမြောင်းပေး မေး၍ တပည့်တို့၏ ဉာဏ်ကို နှိုးဆွ၍ တစ်ကန့်ချင်း သင်ပေးသောနည်းမျိုး ဖြစ်သည်၊ ထို့ကြောင့် တပည့်တို့သည် အမှတ်တမဲ့ နေ၍ မရပေ, ငေးနေ၍ တွေးနေ၍ မဖြစ်ပေ။

"သူ့ကို မေးမည်လား, ငါ့ကို မေးမည်လား"နှင့် တစောင့်စားစားဖြင့် အားလုံးပင် အာရုံစိုက်၍ နေကြရကုန်၏၊ ချက်ခနဲ မေးလျှင် ဒက်ခနဲ ဖြေတတ်အောင်လည်း အသင့်အနေအထား ရှိကြရလေသည်။

## ဆိုကရေးတီး၏ နည်းစနစ်လော *

ဤသို့ "မေး၍ မေး၍ သင်တဲ့နည်းစနစ်"ကို "ဆိုကရေးတီး၏ နည်းစနစ်ပါ"လို့ အချို့က ပြောချင်ကြ၏၊ ခရစ်မပေါ်မီ လွန်ခဲ့သော ဘီစီ ၅၀၀ နှင့် ၄၀၀ အတွင်းက ဂရိတို့ဒေသ၊ အေသင်မြို့တွင် "ဆိုကရေးတီး"ဟူသော ပညာရှင်တစ်ဦး ပေါ်ခဲ့ဖူးသည်၊ ဆိုကရေးတီး၏ ရှေ့က ပညာသင်ပေးကြသော "ဆိုဖိ"ဆရာကြီးတို့လည်း ရှိခဲ့ကြ၏။

ထိုဆရာကြီးတို့၏ ပညာသင်ပေးပုံမှာ ဆရာက နည်းနာပေး၍ တပည့်တို့အား အလွတ်ကျက်မှတ်စေခြင်း နည်းမျိုးဖြစ်သည်၊ ထိုနည်းမှာ မိခင်က ကြေညက်အောင် ဝါးပြီးမှ ဝါးဖတ်ကို ခွံ့ပေးခြင်းမျိုးသာ ဖြစ်၍ တပည့်တို့ ဉာဏ်မပွင့်လင်းနိုင်၊ အတော်ဆုံး တပည့်သည် တူအောင် တုတတ်ခြင်းမျှသာ တတ်နိုင်ရာ၏၊ ထို့ကြောင့် ထိုစနစ်ကို ဆိုကရေးတီးက မကြိုက်ဟုဆိုသည်။

ဆိုကရေးတီးက တပည့်တို့အား မေးမြန်း၍လည်းကောင်း, စူးစမ်းစေခြင်းဖြင့်လည်းကောင်း သင်ပေးသော နည်းကိုသာ ကြိုက်သည်၊ ထိုနည်းသည် တပည့်တို့၏ ဉာဏ်ကို လက်သည်ဝမ်းဆွဲသည်ကဲ့သို့ ဆွဲယူငင်ထုတ် မွေးဖွားပေးသောနည်းဖြစ်၍ ဉာဏ်သစ် ဉာဏ်ထူးများ နိုးကြား ပွင့်လင်းလာစေနိုင်သည်ဟု ခံယူ၏၊ ယင်းသို့ ခံယူပြီးလျှင် ဆိုကရေးတီးသည်လည်းကောင်း, သူ၏ တပည့် ပလေတိုသည်လည်းကောင်း ကျင့်သုံးလာခဲ့ကြသည်။

ယခုအခါ "ဆရာတော် အရှင်ဇနကာဘိဝံသကလည်း ဆိုကရေးတီး၏ နည်းစနစ်ကို ကျင့်သုံးနေသည်" ဟု အချို့က ဆိုချင်ကြ၏၊ ပြောချင်ကြ၏၊

ကျင့်သုံးနေသလားဟုလည်း မေးချင်ကြ၏၊ အမှန် စင်စစ်ကား မဟုတ်ပါပေ၊ ဆိုကရေးတီး၏ ရှေ့က ဘီစီ ၅၆၆-၄၈၆ အတွင်းက ပွင့်ထွန်းပေါ်ပေါက်တော်မူခဲ့သော ရှင်တော်ဗုဒ္ဓ၏ နည်းနာနိဿယကိုသာ အတုယူခြင်း ဖြစ်ပါသည်။

ရှင်တော်ဗုဒ္ဓ တရားဦး ဟောစက အနတ္တလက္ခဏသုတ်ကို ဟောရာတွင်ပင် ("ရူပံ နိစ္စံ ဝါ အနိစ္စံ ဝါ"တိ၊ "အနိစ္စံ ဘန္တေ") "ရုပ်တရားသည် မြဲသလော မမြဲသလော" "မမြဲပါ အရှင်ဘုရား" ဟူ၍ အမေးအဖြေဖြင့် ဟောကြားတော်မူခဲ့သည် မဟုတ်ပါလော။

အခြားသောနေရာ တော်တော်များများ၌လည်း သံသယ ဒွိဟဖြစ်၍ ပြဿနာမေးလျှောက်လာကြလျှင် "တံ ကိံ မညထ ဘိက္ခဝေ"စသည်ဖြင့် လွတ်လွတ်လပ်လပ် တွေးခွင့် ကြံခွင့်ပေးပြီး ပြန်၍ မေးကာ မေးသူ၏ ဉာဏ်ကို ပွင့်လင်းလာစေလျက် ဖြေဆိုဟောကြားချက်များလည်း ရှိသည်။

ဤသည်တို့ကို အတုယူ၍သာ ဆရာတော် အရှင်ဇနကာဘိဝံသက မေး၍ မေး၍ သင်တဲ့စနစ်ကို ကျင့်သုံးတော်မူခြင်း ဖြစ်ပေသည်။

---

*** Socrates**

**ဆိုကရေးတီး။** ။ဘီစီ ၅၀၀ ပြည့်နှစ်ခန့်က ဂရိနိုင်ငံ အေသင်မြို့တော်၌ ဆိုကရေးတီး အမည်ရှိသော ပညာရှင်တစ်ဦး ပေါ်ပေါက်ခဲ့သည်၊ ထိုခေတ်က အေသင်မြို့သားများသည် ပညာကို အထူးလိုလားကြသဖြင့် အကြောင်းသင့်ရာသင့်ရာ စုဝေးတိုင်ပင် ဆွေးနွေးလေ့ရှိကြသည်၊ ထိုစုဝေးကြသော လူတစ်စုကို "ဆိုးဖစ်"ဟု ခေါ်ကြ၏၊ ဆိုးဖစ်တို့သည် စကား၏ ပရိယာယ်၌ လိမ္မာ၍ ဆွေးနွေးရာတွင် အကျိုးသင့် အကြောင်းသင့် ငြင်းခုံသည်ထက် စကားနိုင်လု၍ ငြင်းခုံလေ့ရှိကြသည်၊ သို့သော် သူတို့၏ စကားများမှာ ပရိယာယ်ကြွယ်ဝသလောက် အနှစ်သာရ ကင်းမဲ့လေသည်။

ဆိုကရေးတီးက ဤသို့ အပေါ်ယံ ရွှေမှုန့်ကြသည့် ပညာမျိုးသည် လူတို့အား ပညာအလင်းရောင် မပေးသည်သာမက ယုံမှားသံသယ ဖြစ်စေပြီးလျှင် ပို၍ရှုပ်ထွေးလွယ်စေသည်ဟု ယူဆသဖြင့် ယင်းကို ရှောင်ကြဉ်လေသည်၊ ဆိုကရေးတီးဝါဒသည်ကား မိမိ၏ ကိုယ်ကျင့်တရားကို လေ့လာစိစစ်ခြင်းဖြင့် အမှန်တရားကို ရှာဖွေခြင်းပင် ဖြစ်ပေသည်။

ဆိုကရေးတီးအလို၌ ပညာရှိလျှင် သီလရှိသည် ဟူ၏၊ ပညာရှိသူသည် အစစအရာရာ၌ ချိန်ဆ၍ မဇ္ဈိမပဋိပဒါ တည်းဟူသော အလယ်အလတ်လမ်းကို လိုက်သည်၊ မယုတ်မလွန် ကျင့်ခြင်းပင်လျှင် စိတ်၏ တည်ငြိမ် ချမ်းသာမှုကို ရနိုင်သည်ဟု ဆိုကရေးတီးသည် ယူဆခဲ့၏။ (စွယ်စုံ)

# အရှင်ဇနကာဘိဝံသ၏ စိတ်နေစိတ်ထား

## ဝန်းကျင်သဘာဝ ရောင်ပြန်ဟပ်မြဲ

ဆရာတော်၏ စိတ်နေစိတ်ထား သဘောထားတို့ကို ရေးသားရာ၌ အလွန်ကျယ်ပြန့်ပါလိမ့်မည်၊ တိုင်းတာ၍ ရစကောင်းမည် မထင်ပါ၊ တစ်စိတ်တစ်ဒေသ အကြမ်းစားမျှသာ ဖော်ပြရေးသား၍ ရနိုင်ပါလိမ့်မည်၊ အပြည့်အစုံ အကုန် တင်ပြနိုင်ဖို့မှာ လွယ်ကူလှမည် မဟုတ်ပါ၊ သူ၏ စေတနာ, သူ၏စိတ်ထား, သူ၏သဘောထား, သူ၏ ရည်ရွယ်ချက်တို့ကား ကြီးမား ကျယ်ဝန်းလှသဘိခြင်း, သူလုပ်ဆောင်ခဲ့သော လုပ်ငန်းရပ်များနှင့် သူပြုစုရေးသားခဲ့သော ၆၀ ကျော်မျှသော ကျမ်းစာအုပ်များ၌ အထင်းသားပေါ်လွင် ထင်ဟပ်လျက် နေပါလိမ့်မည်၊ ဤနေရာ၌ကား အကုန်မဟုတ်ဘဲ တစ်စိတ်တစ်ဒေသမျှသာ ဖော်ပြနိုင်စွမ်း ရှိပါလိမ့်မည်။

ဆရာတော် အရှင်ဇနကာဘိဝံသ၏ အမိအဘတို့မှာကျောင်းဒါယကာ,ကျောင်းအမ သားသမီးများ ဖြစ်ကြ၏၊ ယင်းကဲ့သို့သော မိဘနှစ်ပါးမှ ပေါက်ဖွားလာခဲ့ရသော အရှင်ဇနကာဘိဝံသ လောင်းလျာကလေးမှာလည်း ကျောင်းရိပ်ကန်ရိပ်မှာပင် ခိုလှုံပြီး

ကြီးပြင်းခဲ့ရ၏၊ ဤကဲ့သို့ ကျောင်းကန်ဘုရား၏ အေးရိပ်သာခြင်း၊ ငြိမ်းချမ်းခြင်း၊ မေတ္တာစိတ်၊ ကရုဏာစိတ် ရောင်ပြန်ဟပ်ခြင်း၊တရားမျှတခြင်း ဟူသောပတ်ဝန်းကျင်တို့ကြောင့် အရှင်ဇနကာဘိဝံသ လောင်းလျာကလေး၏ စိတ်ဓာတ်သည်လည်း ဧကန်မုချ နူးညံ့ခြင်း၊ ငြိမ်းချမ်းခြင်း၊ တရားမျှတ ခြင်း ရှိရမည်မှာ သေချာသည်၊ အဘယ့်ကြောင့်ဆိုသော် မြေဂူမှာ အောင်းသော ခြသေ့ံသည် မြေရောင် ပေါက်ရ၍ ရွှေဂူမှာ အောင်းသော ခြသေ့ံသည် ရွှေရောင်တောက်ရသကဲ့သို့တည်း။

## တစ်ဘဝအတွင်း မျက်နှာသုံးမျိုး

တစ်ခါတုန်းက အကြောင်းစပ်လာသဖြင့် ဆရာတော်က အမိန့်ရှိဖူး၏၊ "ဘုန်းကြီးရဲ့ ပဋိသန္ဓေကသောမနဿနှင့် နေလာခဲ့ဟန် တူရဲ့၊ ငယ်ငယ်ကစပြီး ပျော်ပျော်ရွှင်ရွှင်ပဲ နေလာခဲ့တာ၊ အမြဲတမ်း မျက်နှာချိုခဲ့တယ်၊ စာသင်တော့လဲ ပျော်ပျော်ပဲ သင်လာခဲ့တာ၊ အဲလိုနှင့် နေလာရာက ဘုန်းကြီးရဲ့ ရဟန်းဘဝ ခပ်ရွယ်ရွယ်လောက်ရောက်တော့ မိဘများ ပစ္စည်းတွေ လျှောကုန်တယ်။

ပစ္စည်းတွေ လျှောကုန်တော့ စီးပွားဥစ္စာတွေ အခြေမခိုင် ယိမ်းယိုင်လာတယ်ဆိုရင်ပဲ ဆွေမျိုးတွေကအစ အထင်သေးလာကြတယ်၊ ဝိုင်းပြီး နှိမ်ချင်လာကြတယ်။

တစ်ဆက်တည်း ဘုန်းကြီးအပေါ်ကိုလဲ ပတ်ဝန်းကျင် သီတင်းသုံးဖော်တွေက စီးပိုးစီးနင်းလုပ်လာကြတယ်၊ ဒါနှင့်ပဲ မခံချင်လို့ မျက်နှာတင်းတင်း ထားခဲ့ရတယ်၊ ဘုန်းကြီးမျက်နှာဟာ တော်တော် တင်းနေတဲ့ပုံပေါ်နေဟန်တူရဲ့၊ ဒီတော့ "ဦးဇနကဟာ မာနကြီးတယ်, ပညာမာန်တက်တယ်"နှင့် ဖြစ်လာကုန်ရော၊ ဖြစ်ပစေဟဲ့လို့ ထားလိုက်တယ်။

အဲဒီနောက် တော်တော်ကြာမှ တစ်ခါ ကိုယ့်ကိုယ်ကို သတိနှင့်ပြန်ပြီး မိမိရဲ့ ဥပဇ္ဈာယ်ဆရာ စစ်ကိုင်းတောင်ရိုးက မဟာဂန္ဓာရုံ ဆရာတော်ဘုရားကြီးလို ဗုဒ္ဓါနုဿတိနှင့် မေတ္တာကို များများ ထုံပေးဦးမှ၊ ဒါမှ တော်မယ်လို့ သဘောပေါက်လာတယ်။

သဘောပေါက်တဲ့အတိုင်း နောက်ပိုင်းမှာ ပြန်ပြီး ပြုပြင်လိုက်တော့လဲ ဒေါသတွေ လျော့ပါးလာတယ်၊ မာနတွေ လျော့ပါးလာပြီး မျက်နှာဟာ တဖြည်းဖြည်းနှင့် အေးဆေးတဲ့ အသွင် ပြောင်းလာပါတယ်၊ ပြောင်းရုံတင်မက မျက်နှာလဲ ချိုလာပါတယ်။

အဲလိုနှင့် ဘုန်းကြီးဟာ တစ်ဘဝအတွင်းမှာ မျက်နှာ သုံးမျိုး ပြောင်းခဲ့ရတာကို သတိပြုမိတယ်၊ အစပိုင်းမှာ သဘာဝအတိုင်း ချိုတယ်၊ နောက် တင်းလာခဲ့ရတယ်၊ နောက်တော့ တစ်ဖန် ပြန်ပြီး အခုအထိ ချိုလာနိုင်ခဲ့ပါတယ်ဟူ၍ အမိန့်ရှိဖူးသည်။

## အနုအကြမ်း နှစ်မျိုးပြွမ်း၍

ဤသို့လျှင် အရှင်ဇနကာဘိဝံသဆရာတော်၏ စိတ်ဓာတ်တို့သည် မူလက နူးနူးညံ့ညံ့ဖြင့် စခဲ့ရသော်လည်း အခါကာလ ဌာနအားလျော်စွာ တစ်ခါ တစ်ရံတွင် မျက်နှာတင်းခဲ့ရ၏၊ တစ်ခါတစ်ရံတွင် စိတ်ဓာတ် ပြင်းခဲ့ရ၏"ဟု ဆရာတော်ကိုယ်တိုင် ဝန်ခံထားဖူးသည်၊ အချို့က ထင်ကြပေလိမ့်မည်၊ ဆရာတော် အရှင်ဇနကာဘိဝံသ၏ စာပေတို့ကို ဖတ်ရှု၍ ဟောပြောသော တရားသံတို့ကို နာခံ၍ "ဆရာတော်သည် အမြဲတမ်းအားဖြင့် အေးဆေးလှသည်၊ နူးညံ့လှသည်၊ ပျော့ပျောင်းလှသည်"ဟု ထင်ကောင်း ထင်ကြပေလိမ့်မည်၊ ထိုသို့ ထင်လျှင် မှားသွားပါလိမ့်မည်။

ဆရာတော်မှာ နူးညံ့အေးငြိမ်းသော စိတ်ထား ရှိသည်ကား မှန်၏၊ သို့သော် အမြဲတမ်း နူးညံ့နေချင်၍ မရနိုင်ပါ၊ အဘယ့်ကြောင့်ဆိုသော် ... ခေါင်းဆောင်ပုဂ္ဂိုလ်ဖြစ်သည့်အားလျော်စွာ ငယ်သား တပည့်တို့ကို အုပ်ချုပ်နေရ၍ အုပ်ချုပ်ရာတွင် ပုထုဇဉ်တွေကို ပုထုဇဉ်လို အုပ်ချုပ်နေရသောကြောင့် ဖြစ်ပေသည်၊ ထို့ကြောင့် တစ်ခါတလေ ဘီလူးဆိုင်းတီး၍ ထွက်ရသည်လည်း ရှိသေး၏။

## စိတ်ဆိုးသော်လည်း ပြေလွယ်ပျောက်လွယ်

သို့သော် ထူးဆန်းသည်ကား ဆရာတော်၏စိတ်မှာ အပြောင်းအလွဲ အလွန်မြန်လှ၏၊ ပြောင်းလွဲ၍ ရ၏၊ ယခု ဒေါသဖြစ်နေရသော်လည်း ယခုပင် ဖျောက်၍ ရသည်၊ ပြေလွယ်၏၊ အများသူငါတို့မှာ လောဘ ဒေါသ မာန်မာန ဖြစ်မိလျှင် ရတ်တရက် မပြေနိုင်တတ်၊ မကြေနိုင် မချမ်းနိုင် ဖျောက်၍ မရနိုင် ဖြစ်တတ်၏၊ ဆရာတော်ကား ပြေလွယ်သည်၊ ပျောက်လွယ်သည်၊ တစ်ခါတွင် ဆရာတော်က ဤသို့ အမိန့်ရှိဖူး၏။...

"တို့စိတ်က အံဆွဲကို ဖွင့်လိုက်သလိုပဲ, ဟောဒီ အံဆွဲကို ဆွဲဖွင့်လိုက်ပြီ၊ အံဆွဲထဲက ပစ္စည်းတွေကို မြင်ရတယ်၊ ဟော-ပြန်ပိတ်လိုက်ပြီ၊ ပစ္စည်းတွေလဲ အကုန်ပျောက်သွားပြီ၊ အဲဒီအတိုင်းပဲ တို့စိတ်ကလဲ၊ နောက်ထပ် အံဆွဲတစ်ခုကို ဆွဲဖွင့်လိုက်ပြန်ပြီ၊ နောက် အံဆွဲထဲက ပစ္စည်းအသစ်တွေကို မြင်ရပြန်ပြီ၊ ဟော-ပြန်ပိတ်လိုက်ပြန်ပြီ, ပစ္စည်းတွေလဲ အကုန်ပျောက်သွားပြီ၊ အဲလိုပဲ တို့စိတ်က ဟိုဘက်မှာ ဖြစ်ခဲ့တဲ့စိတ်ကို ဟိုဘက်မှာပဲ ထားခဲ့လို့ရတယ်, ဒီဘက်ကို မယူခဲ့ဘဲ ဖြစ်တယ်"ဟူ၍ မိန့်ပါသည်။

ဟုတ်ပေလိမ့်မည် ထင်ပါသည်၊ တစ်ခါတစ်ရံတွင် တပည့်တို့ အပေါ်၌ သွားရင်း လာရင်း အမြင်မတော်သည်ကို တွေ့ရ၍ ဒေါသဖြစ်နေသည့်ဟန် ပြင်းထန်စွာ ဆူပူကြိမ်းမောင်းသွား၏၊ ထို့နောက် မကြာခင်ပင် သူ့ကျောင်းကလေးပေါ်သို့ ပြန်ရောက်ကာ စာရေးနေသည်။

ထိုအခါ စောစောက ဘာမျှ မဖြစ်ခဲ့သလို သူ့မျက်နှာမှာ အေးဆေးငြိမ်းချမ်းလှတော့၏၊ ထိုမျှမက ခဲတံကလေးဖြင့် စာရေးစားပွဲကို ခေါက်ကာ ခေါက်ကာ ကဗျာလင်္ကာပင် စပ်နေပြန်သည်၊ ပါးစပ်မှလည်း တိုးတိုး တိုးတိုး ဆို၍ လက်မှလည်း ကာရန်ကိုက်/မကိုက် စည်းလိုက်နေဟန် တူ၏။

ဤသို့လျှင် ဆရာတော်၏ စိတ်ဓာတ်ကား ပြေလွယ် ပျောက်လွယ်, ဖျောက်၍ လွယ်သည်ဟူ သတည်း။

## ပျော်စရာ အကောင်းဆုံးအချိန်

ထို့ကြောင့်ပင် တစ်ခါတလေ စိတ်ထဲမတွေ့၍ စာချနေစဉ် ရှုံ့ရှုံ့ရှုံ့ရှုံ့ ဖြစ်တတ်၏၊ ဝုန်းဝုန်း ဒိုင်းဒိုင်း ထ၍ ပွက်တတ်၏၊ သို့သော် တစ်ခဏ မျှသာ၊ တပည့်များကား အကြောင်းသိပြီး အစဉ်း သိပြီး ဖြစ်၏၊ ဆူပွက်နေစဉ် ငြိမ်၍ နေလိုက်ရုံသာ တည်း၊ ပြီးလျှင် ချက်ချင်းပင် စိတ်ပြောင်းသွားကာ ရယ်စရာ မောစရာတွေ ပြောလာတော့၏၊ တဝါးဝါး ရယ်နေကြရပြန်သည်၊ ဆရာတော့်ထံမှာ ပျော်စရာ အကောင်းဆုံး အချိန်ကား စာတက်နေရသော အချိန်တည်း၊ စာတက်နေချိန်တွင် အားလုံး ပျော်ပျော်ရွှင်ရွှင်နေခြင်းကို ဆရာတော်က ခွင့်ပြု၏၊ ဆရာတော်ကလည်း ပျော်ပျော်ရွှင်ရွှင်ပင် စာချတတ်သည်။

ထို့ကြောင့် အခြားသော အချိန်တို့၌ ဆရာတော့်မျက်နှာကို ရဲရဲမဖူးဝံ့ကြသော်လည်း စာတက်နေရသော အချိန်တွင်ကား အားလုံးပင် ရဲရဲ ဖူးဝံ့ကြသည်၊ ဆရာတော်ကလည်း ခွင့်ပြုတော်မူ၏။

သို့ဖြစ်၍ ဆရာတော့်ထံသို့ စာတက်သွားကြရမည်ဆိုလျှင် အားလုံး ရွှင်နေတတ်ကြသည်၊ စာချစာတက်ချိန်တွင် ဆရာတော်နှင့် ဆက်ဆံရသည်မှာ စိတ်အချမ်းသာဆုံး အကောင်းဆုံး ဖြစ်တော့သည်။

နောက်တစ်မျိုး ရှိသေး၏၊ ဆရာတော်သည် စိတ်ထား ဖြောင့်မတ်ဖြူစင်ခြင်းကို အထူးလိုလားတော်မူ၏၊ သာသနာတော်မှာ စိတ်ထားကောင်းဖို့ကို နံပါတ်(၁) ထားတော်မူသည်၊ ထို့ကြောင့် ဩဝါဒတွေ များစွာပေးသော်လည်း နောက်ဆုံးချုပ်လျှင် စိတ်ထားကောင်းဖို့ကိုပင် သွား၍ ဦးဆိုက်၏။

"စိတ်ထားမှ မကောင်းလျှင် သာသနာတွင် အကျိုးမများပါဘူး၊ စာတွေ ဘယ်လောက်ပဲ တတ်နေနေ, စိတ်ထားမဖြောင့်လို့ ဝိနည်းအတိုင်း မနေဘူးဆိုရင် အပိုပဲ၊ အဖဘုရားရှင်၏ ကျေနပ်မှုကို သူမပေးနိုင်ပါဘူး"ဟူ၍ မိန့်တတ်သည်။

## မျက်မှောက် မျက်ကွယ် မာယာ သာဌေယျ မရှိ
## ကိုယ်တော်တိုင် စံပြကျင့်သုံးခဲ့

ဆရာတော်က တပည့်များကိုသာ အနေအထိုင်ကောင်းဖို့ ဝိနည်းလေးစားဖို့ ဩဝါဒပေးနေသည် မဟုတ်သေး၊ ကိုယ်တော်တိုင်လည်း နမူနာစံပြအဖြစ် တိတိကျကျ လိုက်နာကျင့်သုံးနေထိုင်တော်မူပြ၏၊ ထိုအဖြစ်ကို အနီးကပ်လေ့လာကြည့်မှ ပို၍ သိနိုင် ပို၍ ကြည်ညိုနိုင်ပါသည်။

ရှေ့တွင် တစ်မျိုး၊ ကွယ်ရာ တစ်မျိုး နှစ်မျိုးမထားပေ၊ မာယာ သာဌေယျ မရှိပေ၊ လှည့်ပတ်ဝေ့ဝိုက်သည်ကိုလည်း မကြိုက်ပေ၊ စိုက်စိုက်မတ်မတ် ဝိနည်း ပညတ်တော်အတိုင်း အတိအကျ နေထိုင်တော်မူသည်။

တစ်ခါက အလုပ်အကျွေး တပည့်ကလေးဖြစ်သော ကရင်အမျိုးသားလေး ကိုရင်ဝိသုတသည် ဆရာတော်၏ ကျောင်းကလေးသို့ ဝေယျာဝစ္စဆောင်ရွက်ရန် သွားခဲ့၏၊ ကျောင်းပေါ်တက်ခါနီးတွင် "အဟင်း အဟင်း"ဟူ၍ ချောင်းသံပေးလိုက်သည်၊ ထိုအခါ ဆရာတော်က...

"အောင်မယ်...အသံတွေ ဗလံတွေများ ပေးလို့ လာပါကွဲ့၊ တန်းပြီးတက်ခဲ့ပါ၊ မတော်တာ ငါဘာတွေလုပ်နေတာလိုက်လို့၊ ငါဟာ တစ်ယောက်တည်း ကွယ်ရာဆိတ်ရာမှာ နေနေ၊ အများနဲ့ ပြောင်ပဲနေနေ အတူတူပါပဲ၊ မတော်တာတွေ လုပ်မနေပါဘူး၊ အကယ်၍ ငါက မတော်တာတွေ လုပ်နေမိရင်လည်း မိစမ်းပါစေကွာ"ဟူ၍ မိန့်သတည်း။

## နိုင်ငံနှင့်သာသနာ ကမ္ဘာမှာ ဂုဏ်တင့်ဖို့

ဆရာတော် စိတ်သန်နေမှုတစ်ခု ရှိသေး၏၊ မကြာ မကြာလည်း မိန့်တတ်သည်၊ "သာသနာ့ဝန်ထမ်းသားတွေဟာ ကောင်းကောင်း နေပြရမယ်၊ ဝိနည်းအတိုင်း တိတိကျကျ လိုက်နာနေထိုင်ကြရမယ်၊ သာသနာ့ဝန်ထမ်းတွေဟာ အသိဉာဏ်နောက်ကျ မနေစေရဘူး၊ သိသင့် သိထိုက်တာတွေ အပြစ်မရှိတဲ့ ပညာရပ်တွေဆိုရင် သင်ကြရမယ်၊ ကိုယ်နှင့် ဆိုင်ရာတွေကို အသိဉာဏ် ပေးနိုင်ရမယ်၊ ယဉ်ကျေးမှုကို ဦးဆောင်နိုင်ရမယ်၊ သင်ပြ ကြရမယ်၊ ကိုယ်စီကိုယ်င အလုပ်လုပ်ကြရမယ်၊ သွေးအေးမနေကြရဘူး၊ အဲလိုသာ အလုပ်လုပ်ကြမယ်ဆိုရင် ဒီသာသနာကို ဘယ်သူ အထင်သေးဝံ့မလဲ၊ ဒီလို မနေကြလို့ အခု အထင်သေးခံနေရတာ။

တစ်နိုင်ငံလုံး တစ်သာသနာလုံးက တက်ညီလက်ညီနှင့် ကောင်းကောင်းနေပြီး အလုပ်လုပ်ပြလိုက်ရင် ဘာကြာလိမ့်မလဲ၊ ၁၀ နှစ် ၁၅ နှစ် အနှစ် ၂၀ အတွင်းမှာပဲ ဒီသာသနာကို အားလုံးက ပြန်ပြီး မော်ကြည့်လာရမယ်။

အခု ငုံ့ကြည့် ခံနေရတာဟာ အလုပ် မလုပ်ကြလို့၊ ကိုယ်စီကိုယ်ငသာ အလုပ် လုပ်ကြရင် ရပါသေးတယ်၊ အချိန် ရှိပါသေးတယ်၊ နောက်မကျသေးပါဘူး။

## အမှန်ဆုံးဝါဒကို လက်ကိုင်ရပါလျက်

တို့ဘုရားကိုယ်တော်မြတ်ဟာ အိန္ဒိယနိုင်ငံမှာ "ထိပ်"ဆိုတဲ့ လူတွေကြားက ထိုးဖောက်ထွက်လာတာ၊ ပဏ္ဍိတ်အမည်ခံ ပုဂ္ဂိုလ်ကြီးတွေကြားက ထိုးထွက်လာတာပဲ၊ ဘုရားကိုယ်တော်မြတ် မပေါ်ခင်တုန်းက သူ့နည်းနဲ့သူ သူ့ဝါဒနှင့်သူ ကြီးကျယ်ခဲ့ကြတာပဲ၊ ဒါပေမယ့် အမှန်ဆုံးနှင့် အစစ်ဆုံး (မှတ်ကျောက်တင် ခံနိုင်တဲ့) ဝါဒကို ဖော်ပြနိုင်တဲ့ ဘုရားကိုယ်တော်မြတ် ပေါ်လာတော့ ယခင့်ယခင်က ထွန်းကားခဲ့တဲ့ ဝါဒတွေဟာ ဘေးကို ရှဲကုန်ကြရ တာပဲ၊ (မှော်တောကို လက်နဲ့ခွဲပြီး ဘေးကို ရှဲကုန်အောင် တွန်းကန်ဖယ်ရှားပြီ ထွက်လာသလိုပဲ)၊ ဒါ ဘာလို့ ဖြစ်ရသလဲဆိုရင် ဘုရား

ကိုယ်တော်မြတ်ရဲ့ ဝါဒက အမှန်ဆုံး ဖြစ်နေလို့ပဲ။ အဲဒီ အမှန်ဆုံးဝါဒကို အခု လက်ကိုင်ရနေကြပါလျက် ဒါကို သဘာဝကျကျ အသုံးမပြုနိုင်ကြလို့၊ အခု အများရဲ့ အလယ်မှာ မျက်နှာငယ်နေကြရတာ၊ လက်ကိုင်ရတဲ့ သူတွေကလဲ အများလေးစားဖွယ် ဖြစ်အောင် မနေကြလို့ အထင်သေးခံနေကြရတာ၊ ဒါကို အားလုံး ပြင်ထိုင်ပြီး ကြိုးစားလိုက်ရင် ဖြစ်နိုင်ပါသေးတယ်၊ အခုလုပ်ရင် အခု ဖြစ်နိုင်ပါသေးတယ်၊ ဒီလိုသာ ကြိုးစားပြလိုက်ရင် တခြားက ဝါဒတွေ စနစ်တွေ ဒီနိုင်ငံကို ဝင်ဖို့ မလိုပါဘူး၊ ဗုဒ္ဓတရားတော် နည်းလမ်းအရ တိုင်းပြည်ကို ထူထောင်လို့ ရပါတယ်။

ရှေးတုန်းက... ဗိမ္ဗိသာရတို့၊ ကောသလတို့၊ အသောကတို့ဆိုတဲ့ ဘုရင်တွေလဲ ဒီဗုဒ္ဓတရားတော် အဆုံးအမကို ခံယူပြီး တိုင်းပြည်ကို ထူထောင်လာခဲ့ကြတာပဲ၊ အဲလိုသာ ကြိုးစားကြမယ်ဆိုရင် ဒီနိုင်ငံနှင့် သာသနာဟာ ကမ္ဘာမှာ ဂုဏ်တင့်လို့ တဝင့်ဝင့်နှင့် စိတ်ချမ်းသာ ကိုယ်ချမ်းသာ ဖြစ်နိုင်ကြမှာ အမှန်ပဲ" ဟူ၍ မကြာခဏ မိန့်တတ်လေသည်။

ဤသို့ ပြုပြင်ရေးတရားတွေကို ဟောနေရ ပြောနေရလျှင် ဆရာတော်က မောသည်ဟု မထင်ချေ၊ လေသံကလည်း တက်ကြွသော လေသံသို့ ပြောင်းသွားတတ်သည်၊ ဥပမိရုပ်ကလည်း ငယ်လာသလို ထင်ရ၏၊ ဤမျှပင် စိတ်အားသန်တော်မူသည်။

# အရှင်ဇနကာဘိဝံသ စကား မတတ်ပါ

## ဆရာတော်၏ အာသီသဆန္ဒ

ရှေးရှေးတုန်းက ကျမ်းပြုဆရာတော်တို့သည် ကျမ်းစာရေးသားပြီးလျှင် နိဂုံးအုပ်ရာ၌ "အနာယာသေန နိဋ္ဌာနံ-မပင်မပန်း ပြီးဆုံးပေပြီ"ဟု မှတ်တမ်းတင်တတ်ကြ၏၊ ဆရာတော်ကား ထိုသို့ မဟုတ်ချေ၊ စေ့စေ့စပ်စပ်နှင့် တစ်ကျမ်းပြီးဖို့ရာ အင်မတန်ကြိုးစားရသောကြောင့်လည်းကောင်း၊ တစ်ချိန်တည်းမှာပင် နှစ်ကျမ်းပြိုင် သုံးကျမ်းပြိုင် ရေးနေရသောကြောင့်လည်းကောင်း မပင်မပန်းဟု မပြောနိုင်ပါ၊ ပင်ပန်းလှပါသည်ဟု ရိုးရိုးပင် ဝန်ခံထားပါ၏။

ထို့ပြင် ရှေးရှေးက ကျမ်းပြုဆရာတို့သည် ကျမ်းစာရေးသားပြီးလျှင် ဆုတောင်းတတ်ကြသည်၊ "သာသနာကွယ်သည့်တိုင်အောင် (သို့မဟုတ်) ကမ္ဘာတည်သရွေ့ မိမိ၏ ကျမ်းစာတည်ရစ်ပါစေ" ဟု အာသီသ ပြုတတ်ကြ၏၊ ဆရာတော်ကား ထိုသို့ မဟုတ်ချေ။

**ယဒိ အညာ ဥပ္ပဇ္ဇေထ, ဋ္ဌကတောပိ သုစသမ္ဗတာ၊**
**တသောကာသံ ပဒါနာယ, အယံ အန္တရဓာယတံ။**

**အဓိပ္ပာယ်မှာ** "ဤကျမ်းစာထက် ချပို့သင်ယူရာ၌ သိလွယ်သော ကျမ်းစာတစ်ဆူ ပေါ်လာပါက နောက်ကျမ်းစာကို အလှည့်ပေးဖို့ရာ ဤကျမ်းစာသည် တိမ်ဖုံးသောလကဲ့သို့ ကွယ်ပရစ်ပါစေ"ဟု အာသီသ ပြုလေ့ရှိ၏၊ ကျမ်းစာတိုင်း၏ နောက်ပိုင်းတွင် သူ့ဆန္ဒကို မှတ်တမ်းတင်တတ်သည်။

ဤသည့်ဆန္ဒကို အချို့က ဝေဖန်ကြ၏၊ "အရှင်ဇနကာဘိဝံသဟာ စကားတတ်တယ်၊ အလင်္ကာတတ်တယ်၊ "နောက်ကျမ်းစာအတွက် မိမိကျမ်းစာက နေရာဖယ်ပေးရစ်ပါစေ"ဆိုသဖြင့် သဘောထားကြီးရာ ရောက်သည်၊ နောက်တစ်ခုက "သိလွယ်သော ကျမ်းစာတစ်ဆူ ပေါ်လာပါက"ဟု ဆိုထားသဖြင့် "မိမိကျမ်းစာများ မကွယ်သေးသမျှ သိလွယ်သော ကျမ်းစာလည်း မပေါ်သေး"ဟု ဆိုလိုရာ ရောက်တော့သည်။

ထို့ပြင် မိမိကျမ်းစာ ကွယ်ရသည့်တိုင်အောင် မိမိကျမ်းစာက ရွှန်းရွှန်းမြမြ ဝင်းဝင်းပပ လပမာ၊ နောက်ပေါ်လာသော ကျမ်းစာတို့က ညှိုးညှိုးမည်းမည်း တိမ်ခဲတိမ်လိပ်ပမာ တင်စားထား၏။

သို့ဖြစ်၍ အရှင်ဇနကာဘိဝံသဟာ စကားတတ်သလောက် အလင်္ကာဂုဏ်မြောက်စွာဖြင့် အာသီသပြုထားသည်"ဟု ဝေဖန်ကြ၏။

## အဲဒါ သားလားလို့ သွား၍ မေးမိ

ဆရာတော် အရှင်ဇနကာဘိဝံသကမူ "စကား တတ်သည်"ဟု ဝန်မခံပါ၊ စကားပရိယာယ် မကြွယ် ပါ၊ ထိုသို့ မကြွယ်၍ပင် တစ်ခါက ကြုံဖူးတော့သည်၊ ရန်ကုန်မြို့ ဝိုင်အမ်ဘီအေအသင်း၏ လျှောက်ထား ချက်အရ စာအုပ်ငယ်တစ်အုပ် ရေးသားချီးမြှင့်ရ ဖူး၏၊ ရေးပြီးသောအခါ စာမူကို အပ်ရင် "ပြင်ချင် တာရှိရင် ပြင်ပါ"ဟု အခွင့်ပြု မိန့်တော်မူလိုက်သည်၊ ထို့ကြောင့် စာပြန်လာသည်မှာ "ဆရာတော့်စာတို့ ကား အားလုံး အပြည့်အဝ တိကျသဖြင့် သဘာဝ အဓိပ္ပာယ် လုံးဝ ပြင်စရာ မရှိပါ၊ သို့ရာတွင် "ရွှေ ဒင်္ဂါး ငါးကျပ်နှင့် ငွေတစ်ဆယ်ကျပ်ကဲ့သို့"ဟူ၍ ဥပမာပေးရာတွင် "ရွှေဒင်္ဂါး ငါးပြား"ဟူ၍မျှသာ ပြင်လိုက်ပါသည်ဟု စာတွင် ဖော်ပြထားပါသည်။

ထိုအခါ ဆရာတော်က "ဟုတ်ပေသားပဲ, ဒီ နေရာမှာ ငါ အ တာပေါ့၊ ဝေါဟာရအသုံးအနှုန်း မကျွမ်းကျင်မှုဘဲ၊ "ရွှေဒင်္ဂါး ငါးကျပ်"ဟူ၍ အသုံး မရှိ၊ "ရွှေဒင်္ဂါး ငါးပြား"ဟူ၍သာ သုံးစွဲရိုးရှိသည်ဟု ဝန်ခံတော်မူပါသည်။

တစ်ခါကမူ ပထမကျော်အောင်၍ အပူဇော် ခံရန် ရန်ကုန်သို့ ရောက်နေခိုက် ဖြစ်သည်ဟူ၏၊ စကားလည်း နည်းခဲ့သူ ဖြစ်သည်၊ တည်းခိုသော နေရာတွင် စကားမပြော တုဏှီဘောဖြင့် သုန်သုန် မှုန်မှုန် နေရသည်မှာ မတော်လှဟု အောက်မေ့ လာ၏၊ "စကားလေး ဘာလေး ပြောဦးမှပဲ"ဟု သဘောပေါက်လာသည်ဟူ၏၊ သို့ဖြင့် ကလေးငယ် ကို ပွေ့ချီ၍ အနားသို့ ရောက်လာသော အမျိုးသမီး ကြီးတစ်ယောက်အား "အဲဒါ သားလား"ဟု သွား၍ မေးမိတော့သတတ်၊ ထိုအမျိုးသမီးက "မဟုတ်ပါ ဘူး ဘုရား, တူကလေးပါ၊ ညီမက မွေးတဲ့ တူကလေး ပါ"ဟု ပျာပျာသလဲ ငြင်းဆိုဖြေကြားတော့သည် ဟူ၏။

ထိုအခါမှပင် အရှင်ဇနကာဘိဝံသမှာ... "သြော်-အပျိုကြီးကိုး"ဟု မှတ်ချက်ချနိုင်တော့သည် ဟူသတတ်၊ "အဲဒီတုန်းက ငါကိုက အ,တာပါ၊ "ဘာတော်သလဲ"လို့ မေးလိုက်ရင် အရှင်းသားပဲ ဟာ၊ သူ့ဟာသူ ဖြေလာမှာပေါ့၊ ခုတော့ "သားလား" လို့ သွားပြီး မေးမိတဲ့အတွက် ဒုက္ခရောက်တော့ တာပဲ"ဟု ပြန်လည် ဝန်ခံရှာပါသည်။

## တစ်ဘဝလုံး ကလောင်မတုံးခဲ့သော ဆရာတော်

### တာဝန်တစ်ရပ်ဖြင့် လာခဲ့ရသူလော

ဆရာတော် အရှင်ဇနကာဘိဝံသသည် သက် တော် ၃၀ အရွယ် ရဟန်းသိက္ခာ ၁၀ ဝါအရတွင် စတင်၍ ကျမ်းစာများ ရေးသားခြင်း ပြုတော်မူခဲ့၏၊ သာသနာတော်ကြီး၏ တာဝန်ကို အစဉ်မပြတ် သတိကပ်၍ လုံ့လဝီရိယဓာတ် ပြင်းပြစွာဖြင့် ထမ်း ဆောင်တော်မူခဲ့သည်၊ မရပ်မနား ကြားကာလတွင် အပြတ်အလပ် မရှိ, ပျံလွန်တော်မူသည့်နေ့ (ပျံလွန် တော်မူခါနီး နာရီပိုင်းအချိန်)အထိပင် ဖြစ်သည်၊ ဤ သာသနာတွင်းသို့ ဤ တာဝန်များကို ထမ်း ဆောင်ဖို့ တာဝန်တစ်ရပ်ဖြင့် လာခဲ့ရသူလောဟုပင် မေးစရာ ဖြစ်တော့သည်။

သူ့ကိစ္စ သူ့တာဝန်များကို အမြဲပင် စိတ်ဝင်စား တော်မူသည်၊ အမြဲပင် အလုပ်လုပ်၍နေတော်မူ၏၊ ဆရာတော်သည် ပထမအရွယ်, ဒုတိယအရွယ်, တတိယအရွယ်ဟု အရွယ်သာ ပြောင်းခဲ့သည်၊ ရည်ရွယ်ချက်ကား မပြောင်းခဲ့၊ တစ်ကြောင်းတည်း တစ်ဖြောင့်တည်း တစ်ခုတည်းသော ယုံကြည်ချက် တို့ကို နှစ်ပေါင်း ၅၀ ကျော်တိုင်အောင် ပြောခဲ့ ဟောခဲ့ ရေးသားခဲ့၏၊ ထို့ကြောင့်လည်း ဆရာတော် ၏ ကလောင်သည် အမြဲထက်လျက် ချွန်လျက်ပင် ရှိသည်၊ ဆရာတော်၏ တစ်ဘဝလုံး ကလောင် မတုံးခဲ့။

ပထမရွှေကျင်သာသနာပိုင် ဆရာတော်ဘုရား ကြီးလည်း ကလောင် အလွန် ထက်တော်မူပါ၏၊ သက်တော်၇၀ကျော်မှရေးသော "သီဿကောဝါဒ" ကျမ်းစာများကား... ပို၍ပင် ကလောင် ထက်၍

ရှေ့ပိုင်းကျမ်းစာတို့ထက် ပို၍ပင် . အနှစ်အသား ပါလေသည်။

တွင်းသင်းမင်းကြီးသည် အသက် ၃၀ ခန့်က ဥမ္မာဒန္တီပျို့ကို ရေးခဲ့ရာ အသက်နုသည့်အလျောက် စာလည်း အလွန်နုခဲ့သည်။

အသက် ၅၀ ကျော်မှ ရေးသော "မဟာဇနကပျို့" တွင်ကား အသက်ရင့် လာသည့်အလျောက် စာများလည်း ရင့်ကျက်လာကာ သံဝေဂများပါ၍ ကလောင်လည်း ပို၍ပင် ထက်လာသည်ဟု ဆိုကြသည်။

## အရွယ်ရင့်သလို ဉာဏ်လည်း မြင့်လာ

ဆရာတော် အရှင်ဇနကာဘိဝံသ၏ စာများသည်လည်း ထိုအလားပင် ဖြစ်ကြသည်၊ သက်တော်ငယ်စဉ်က ငယ်သည့်ကျမ်းစာများကိုနုသည့်စာသွားတို့ဖြင့် ရေးသားခဲ့၏၊ သက်တော်ကြီးလာသောအခါ ကြီးမားခံ့ထည်သော ပါဠိတော် အဋ္ဌကထာကြီးများကို ရေးသားပြန်ဆိုခဲ့သည်၊ ကျမ်းစာကြီးများက ကြီးမား ခံ့ထည်သလောက် အရေးအသားတို့ကလည်း လေးနက်၍ ကလောင်လည်း ထက်လျက်ပင် ရှိတော့သည်။

ထိုအထဲတွင် "အမိဝမ်းခေါင်း၊ ဆယ်လညောင်းမျှ၊ အောင်းခဲ့ရပေ၊ တည်သန္ဓေနှင့်" စသည်ဖြင့် သံဝေဂအသံများ နှောလာတော့သည်၊ ဤသို့လျှင် တစ်ဘဝလုံး အပတ်တကုတ် အလုပ်လုပ်တော်မူလာခဲ့ရာတွင် ဆရာတော်၏ အလုပ်ခွင်၌ ပါဝင်ကူညီခဲ့ရသော တပည့်များ ရှိခဲ့ကြသည်။

ဆရာတော်က ကျမ်းစာရေးသားရာ၌ ... စာရွက်ကြမ်းပေါ်တွင် ခဲတံဖြင့် အကြမ်းရေးသားပေး၏၊ ယင်းကို တာဝန်ဆောင်ရသော တပည့်များက စက္ကူအချောပေါ်တွင် စာကိုယ်၏ နိဿယကို မင်နက်၊ မင်ပြာတို့ဖြင့် ရေး၍ အောက်ခြေက ထားရသော အဓိပ္ပာယ်ကို မင်နီဖြင့် သပ်သပ်ရပ်ရပ် အချောရေးကူးပေးကြရသည်၊ ထိုတပည့်များကိုလည်း ဤနေရာတွင် ရေးကူးပေးရသော ကျမ်းစာများနှင့် ယှဉ်၍ ဖော်ပြ မှတ်တမ်းတင်လိုက်ပါသည်။

## ဆရာတော်၏ ကျမ်းပြုလုပ်ငန်းကို ကူညီခဲ့ရသူများ

၁။ **အရှင်ကုမ္ဘလ** ။ ။ ၁-ရတနာ့ဂုဏ်ရည်၊ ၂-ဝီထိနှင့်သုံးချက်စုဘာသာဋီကာ၊ ၃-သင်္ဂြိုဟ်ဘာသာဋီကာ၊ ၄-ကိုယ်ကျင့်အဘိဓမ္မာ (ထိုအရှင်သည် ယခုအခါ လူ့ဘောင်သို့ပြောင်း၍ **"ဦးငွေမောင်း"**နာမည်ဖြင့် မန္တလေး မျက်ပါးရပ်တွင် နေထိုင်လျက် ရှိသည်။)

၂။ **အရှင်စန္ဒောဘာသ (သာသနဓဇသိရိပဝရ ဓမ္မာစရိယ)**။ ။ ၁-ကစ္စည်းဘာသာဋီကာ၊ ၂-ဓာတုကထာလက်ာနှင့် အကောက်အဓိပ္ပာယ်၊ ၃-အနာဂတ်သာသနာရေး၊ (မဟာဂန္ဓာရုံကျောင်းတိုက်ကြီး၏ နာယကဦးစီး အကြီးအမှူးဆရာတော် ဖြစ်ခဲ့ပြီး ယခု ပျံလွန်တော်မူပြီ။)

၃။ **အရှင်ဩဘာသ** ။ ။ ၁-ပါတိမောက်ဘာသာဋီကာ၊ ၂-ဘုရား့ဥပဒေတော်ကြီး၊ (ယခုအခါ ရမည်းသင်း၌ သီတင်းသုံးတော်မူလျက်ရှိသည်။)

၄။ **အရှင်ကုမာရာဘာသာဘိဝံသ (အစိုးရဓမ္မာစရိယနှင့် စေတိယင်္ဂဏဓမ္မာစရိယ)**။ ။ ကျမ်းစာသီးခြား ရေးသားရခြင်း မဟုတ်သော်လည်း ဟိုမှ သည်မှ ဆရာတော်ထံ ပေးစာများကို ပြန်ရာ၌လည်းကောင်း၊ ဩဝါဒကထာ စသည်များကို ရေးသားရာ၌လည်းကောင်း အချောရေးကူးပေးရခြင်းဖြင့် အထူး တာဝန်ဆောင်တော်မူရသည်။ (ယခုအခါ အမရပူရ မဟာဂန္ဓာရုံ ကျောင်းတိုက်ကြီး၌ ဦးစီးမဟာနာယကအဖွဲ့ဝင် ဖြစ်တော်မူသည်။)

၅။ **အရှင်ကုဏ္ဍလာဘိဝံသ (သာသနာလင်္ကာရနှင့် အစိုးရဓမ္မာစရိယနှင့်သကျသီဟပရိယတ္တိသာသနဟိတဓမ္မာစရိယ** ။ ။ ၁-ကစ္စည်းဘာသာဋီကာ၊ ၂-ရူပသိဒ္ဓိဘာသာဋီကာ၊ ၃-ရုပ်စုံဗုဒ္ဓဝင်၊ ၄-ဗုဒ္ဓဝင်အမေး-အဖြေ၊ (ယခုအခါ အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်ကြီး၌ ဦးစီးမဟာနာယက အဖွဲ့ဝင် ဖြစ်တော်မူသည်၊ အဟောအပြော ကောင်းသော ဓမ္မကထိကတစ်ပါးလည်း ဖြစ်တော်မူ၏။)

၆။ **အရှင်ဃောသိတ(သာသနဓဇသိရိပဝရဓမ္မာစရိယ)** ။ ။ ၁-ရုပ်ပုံရှင်ကျင့်ဝတ်၊ ၂-အလင်္ကာဘာသာဋီကာ၊

၃-ပါရာဇိကဏ်ဘာသာဋီကာ၊ (ယခုအခါ ရန်ကုန်မြို့ ကမ္ဘာအေး, ရေကူး, သံဃတက္ကသိုလ်၌ ပညာရေးတာဝန်ခံ ဖြစ်တော်မူသည်။)

၇။ **အရှင်တေဇနိယာဘိဝံသ (အစိုးရဓမ္မာစရိယနှင့် စေတိယင်္ဂဏဓမ္မာစရိယ)** ။ ။ ၁-ပါရာဇိကဏ်ဘာသာဋီကာ၊ ၂-အဋ္ဌသာလိနီ မူလဋီကာနိဿယ၊ (ယခု ပြင်ဦးလွင်မြို့ စစ်တက္ကသိုလ် အနီး မဟာဂန္ဓာရုံကျောင်းတိုက်၏ နာယက ဖြစ်တော်မူသည်။

၈။ **အရှင်ရေဝတ (အစိုးရဓမ္မာစရိယ)** ။ ။ ၁-ပါရာဇိကဏ်ဘာသာဋီကာ၊ (ယခုအခါ ရန်ကုန်မြို့ သက်န်းကျွန်း ဒက္ခိဏာရုံကျောင်းတိုက်၌ သီတင်းသုံးတော်မူသည်။)

၉။ **အရှင်မဟောသဓပဏ္ဍိတာလင်္ကာရ (သာသနာလင်္ကာရနှင့် အစိုးရဓမ္မာစရိယ)**။ ။ ၁-ပါရာဇိကဏ်ဘာသာဋီကာ၊ ၂-ကင်္ခါဘာသာဋီကာ၊ (ယခုအခါ စစ်ကိုင်းတောင်ရိုး ဝေဇယန္တာချောင် ဓမ္မကထိက စာချဘုန်းကြီး ဖြစ်သည်။)

၁၀။ **အရှင်ကုဏ္ဍိယာလင်္ကာရ (သာသနာလင်္ကာရနှင့် အစိုးရဓမ္မာစရိယ)**။ ။ ၁-အဋ္ဌသာလိနီ မူလဋီကာနိဿယ၊ (ယခုအခါ လူ့ဘောင်သို့ ပြောင်းသွားပြီ။)

၁၁။ **အရှင်ဇနိတ(ပဋ္ဌာန်းစာချဘုန်းကြီး)** ။ ။ ၁-အဋ္ဌသာလိနီဘာသာဋီကာ၊ (ယခုအခါ တောင်တွင်းကြီးမြို့နယ် ဆပ်သွားမြို့တောင်ဘက်တွင် သီတင်းသုံးတော်မူလျက် ရှိသည်။)

၁၂။ **အရှင်ဝရသီဟ** ။ ။ ၁-အဋ္ဌသာလိနီဘာသာဋီကာ၊ ၂-သမ္မောဟဝိနောဒနီဘာသာဋီကာ၊ ၃-အရှင်ဇနကာဘိဝံသ၏ တစ်ဘဝသံသရာ၊ (ယခုအခါ၌ ဟသ်ာတမြို့နယ်၌ သီတင်းသုံးတော်မူသည်။)

၁၃။ **အရှင်နာယကာဘိဝံသ (အစိုးရဓမ္မာစရိယနှင့် စေတိယင်္ဂဏဓမ္မာစရိယ)**။ ။ ၁-အဋ္ဌသာလိနီဘာသာဋီကာ၊ (ယခုအခါ လူ့ဘောင်သို့ ပြောင်း၍ ဝမ်းတွင်းမြို့နယ် ဟံဇားရွာ၌ နေထိုင်လျက် ရှိသည်။)

၁၄။ **အရှင်ကုသရိယ(အစိုးရဓမ္မာစရိယ)** ။ ။ ၁-ဋီကာကျော်နိဿယ၊ ၂-ကင်္ခါဘာသာဋီကာ၊ (ယခုအခါ မုံရွာမြို့၌ ဂန္ဓာရုံကျောင်းတိုက် တည်ထောင်၍ နာယကအဖြစ်သီတင်းသုံးတော်မူသည်။)

၁၅။ **အရှင်ကုဏ္ဍလာဘာသလေး (သာသနာလင်္ကာရနှင့် အစိုးရဓမ္မာစရိယ)**။ ။ ၁-ပါစိတ်ဘာသာဋီကာ၊ ၂-သဒ္ဒတ္ထဘေဒစိန္တာဘာသာဋီကာ၊ ၃-ကစ္စာယနသာရဘာသာဋီကာ၊ (ယခုအခါ လူ့ဘောင်သို့ ပြောင်းသွားပြီ။)

၁၆။ **အရှင်ဓမ္မရံသီ**။ ။၁-သဒ္ဒတ္ထဘေဒစိန္တာဘာသာဋီကာ၊ ၂-ကစ္စာယနသာရဘာသာဋီကာ (ယခုအခါ လူ့ဘောင်သို့ ရောက်၍နေလေပြီ။)

၁၇။ **အရှင်သုမေဓိတ (သာသနာလင်္ကာရနှင့် အစိုးရဓမ္မာစရိယ)**။ ။ ၁-ပါစိတ်ဘာသာဋီကာ၊ ၂-သီလက္ခန်ဘာသာဋီကာ၊ (ယခုအခါ မန္တလေးမြို့ အရှေ့ပြင်၌ သီတင်းသုံးလျက် ရှိသည်။)

၁၈။ **အရှင်ပညာဓောတာဘိဝံသ (သာသနာလင်္ကာရ အစိုးရဓမ္မာစရိယနှင့်စေတိယင်္ဂဏဓမ္မာစရိယ)** ။ ၁-ပါစိတ်ဘာသာဋီကာ၊ ၂-ဝိနည်းမဟာဝဂ္ဂဘာသာဋီကာ၊ (ယခုအခါ မန္တလေးမြို့ အနောက်ပြင် ပတ္တမြားကျောင်းတိုက်၏ စာချဘုန်းကြီးအဖြစ်ဖြင့်သီတင်းသုံးလျက်ရှိတော်မူသည်။)

၁၉။ **အရှင်အဂ္ဂဝံသာဘိဝံသ (သာသနာလင်္ကာရနှင့် အစိုးရဓမ္မာစရိယ)**။ ။ ၁-သဒ္ဒတ္ထဘေဒစိန္တာဘာသာဋီကာ၊ ၂- ကစ္စာယနသာရဘာသာဋီကာ၊ ၃-စူဠဝဂ္ဂပါဠိတော်နိဿယ၊ ၄-ဓမ္မသင်္ဂဏီပါဠိတော်နိဿယ၊ ၅-ပုဂ္ဂလပညတ် မူလဋီကာနိဿယ၊ ၆-ကထာဝတ္ထုမူလဋီကာနိဿယ၊ (ယခုအခါ အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်၏ နာယကအဖွဲ့ဝင် စာချဘုန်းကြီးအဖြစ် တာဝန်ထမ်းဆောင်လျက်ရှိတော်မူသည်။)

၂၀။ **အရှင်ခေမိန္ဒာဘိဝံသ (သာသနာလင်္ကာရနှင့် ပထမကျော်, အစိုးရဓမ္မာစရိယနှင့် ပရိယတ္တိသာသနဟိတဓမ္မာစရိယ, စေတိယင်္ဂဏဓမ္မာစရိယ ဝဋံသကာ** ။ ။ ၁-ဝိနည်းမဟာဝဂ္ဂဘာသာဋီကာ၊ ၂-စူဠဝဂ္ဂဘာသာဋီကာ၊ ၃-သီလက္ခန်ဘာသာဋီကာ၊ (ယခုအခါ မန္တလေးမြို့ အရှေ့ပြင် ဝိဇ္ဇာသိပ္ပံတက္ကသိုလ် အနီး၊ မဟာဗောဓိရိပ်သာကျောင်းတိုက်၌ သီတင်းသုံးတော်မူသည်။)

**၂၁။ အရှင်သီရိန္ဒ(အစိုးရဓမ္မာစရိယ)။** ။ ၁-ဝိနည်းမဟာဝါဘာသာဋီကာ၊ (ယခုအခါ သာသနာ့တာဝန်ကို ဆက်လက်ထမ်းဆောင်လျက်ရှိသည်။)

**၂၂။ အရှင်သုမင်္ဂလာလင်္ကာရ (သာသနာလင်္ကာရနှင့် အစိုးရဓမ္မာစရိယ၊ တိပိဋကဓရ ။** ။ ၁-သီလက္ခန်ဘာသာဋီကာ၊ (ယခုအခါ ရန်ကုန်မြို့ ကမ္ဘာအေး ရေကူးရပ် မဟာဂန္ဓာရုံကျောင်းတိုက်၏ နာယကအကြီးအမှူး ဖြစ်တော်မူသည်။)

**၂၃။ အရှင်ဝိမလဗုဒ္ဓိ (သာသနဓဇသီရီပဝရဓမ္မာစရိယ)။** ။၁-ပရိဝါဘာသာဋီကာ၊၂-သမ္မောဟဝိနောဒနီဘာသာဋီကာ၊ ၃-သတိပဋ္ဌာနဝိဘင်္ဂမူလဋီကာနိဿယ၊ ၄-ပုဂ္ဂလပညတ္တိ မူလဋီကာနိဿယ၊ ၅-ပဋ္ဌာနမူလဋီကာနိဿယ၊ ၆-တစ်ဘဝသံသရာ၊ (ယခုအခါ အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်၏ နာယကအဖွဲ့ဝင် စာချဘုန်းကြီးအဖြစ် တာဝန်ထမ်းဆောင်လျက် ရှိတော်မူသည်။)

**၂၄။ အရှင်သဇ္ဇနသာရ။** ။၁-သီလက္ခန်ဘာသာဋီကာ၊ ၂-အရှင်ဇနကာဘိဝံသ၏ တစ်ဘဝသံသရာ၊ (ယခုအခါ မန္တလေးမြို့ အရှေ့ပြင် ဝိဇ္ဇာသိပ္ပံတက္ကသိုလ်အနီး၊ မဟာမြိုင်ကျောင်းတိုက်ကြီး၏ ဦးစီး ပဓာန နာယက ဖြစ်တော်မူသည်။)

**၂၅။ အရှင်ကောဝိဒ (သာသနဓဇသီရီပဝရဓမ္မာစရိယ)** ၁-သမ္မောဟဝိနောဒနီဘာသာဋီကာ၊ (ယခုအခါ အမရပူရမြို့ အောင်ခြင်းရှစ်ပါးကျောင်းတိုက်၏ အကြီးအမှူးနာယက ဖြစ်တော်မူသည်။)

**၂၆။ အရှင်ဂန္ဓမာလာ (သာသနဓဇဓမ္မာစရိယ)။** ။ ၁-သမ္မောဟဝိနောဒနီဘာသာဋီကာ၊ (ယခုအခါ မန္တလေးမြို့ အရှေ့ပြင် စိန်တုံးတိုက်၌ စာချဘုန်းကြီး ဖြစ်တော်မူသည်။)

**၂၇။ အရှင်ပဏ္ဍိတာဘိဝံသ(သာသနာလင်္ကာရနှင့် နှစ်ချင်းပြီး အမှတ်အများဆုံး သာသနဓဇသီရိပဝရဓမ္မာစရိယ၊ စေတိယင်္ဂဏဓမ္မာစရိယ)။** ။ ၁-ပါစိတ်ဘာသာဋီကာ၊ ၂-ဝိနည်းမဟာဝါဘာသာဋီကာ၊ ၃-ပရိဝါဘာသာဋီကာ၊ ၄-သီလက္ခန်ဘာသာဋီကာ၊ ၅ - ဓမ္မသင်္ဂဏီပါဠိတော်နိဿယ၊ ၆-သီလက္ခန်ပါဠိတော်နိဿယ၊ ၇-သုတ်မဟာဝါပါဠိတော်နိဿယ၊ ၈-စူဠဝဂ္ဂပါဠိတော်နိဿယ၊ ၉-ဝိနည်းမဟာဝါပါဠိတော်နိဿယ၊ ၁၀-ပရိဝါပါဠိတော်နိဿယ၊ ၁၁-ကထာသလ္လာပသိက္ခာ၊ ၁၂-မဟာဂန္ဓာရုံဝတ်ရွတ်စဉ်၊ ၁၃-သိပ္ပံအမြင်နှင့် ဗုဒ္ဓအဘိဓမ္မာအမြေ၊ (ယခုအခါ ရန်ကုန်မြို့ နိုင်ငံတော်ပရိယတ္တိသာသနာ့တက္ကသိုလ်၏နာယကချုပ်အဖြစ် တာဝန်ထမ်းဆောင်လျက် ရှိတော်မူသည်။)

**၂၈။ အရှင်တိက္ခိန္ဒြိယ(အစိုးရဓမ္မာစရိယ)** ။ ။ ၁-သီလက္ခန်ပါဠိတော်နိဿယ၊ (ယခုအခါ လှူ့ဘောင်သို့ ပြောင်း၍ ရမည်းသင်းမြို့နယ် ဘုရားကြီးရွာ၌ နေထိုင်လျက်ရှိသည်။)

**၂၉။ အရှင်စိန္တိတ(သာသနာလင်္ကာရနှင့် ပထမကျော် သီရိပဝရဓမ္မာစရိယ၊အဂ္ဂမဟာဂန္ထဝါစကပဏ္ဍိတ၊ ဒီဃဘာဏက)။** ။၁-ခုဒ္ဒသိက္ခာဘာသာဋီကာ၊ ၂-သီလက္ခန်ပါဠိတော်နိဿယ၊ (ယခုအခါ မော်လမြိုင်ကျွန်းမြို့၌ သီတင်းသုံးတော်မူသည်။)

**၃၀။ အရှင်နာဂဝံသ (သာသနာလင်္ကာရနှင့် အစိုးရဓမ္မာစရိယ)** ။ ။ ၁-သီလက္ခန်ဘာသာဋီကာ၊ (ယခုအခါ လူ့ဘောင်သို့ ပြောင်း၍ ရန်ကုန်မြို့ ကမ္ဘာအေးဘုရားလမ်း၌ နေထိုင်သည်။)

**၃၁။ အရှင်ဉာဏိဿရ (အစိုးရဓမ္မာစရိယ)။** ။ ၁-သီလက္ခန်ဘာသာဋီကာ၊ (ယခုအခါ ရန်ကုန်မြို့သုဝဏ္ဏမြို့သစ်ကျောင်း၌ နာယကဖြစ်တော်မူသည်။)

**၃၂။ အရှင်ဩဘာသ ။** ။ ၁-သီလက္ခန်ဘာသာဋီကာ၊ (အသက် ၂၇နှစ် ၇ ဝါအရတွင် ပျံလွန်တော်မူရှာပြီ။)

**၃၃။ အရှင်ဇနေဝရ (သာသနဓဇသီရိပဝရဓမ္မာစရိယ)။** ၁-သမ္မောဟဝိနောဒနီဘာသာဋီကာ၊ (ယခုအခါ လူ့ဘောင်သို့ ပြောင်း၍ ဝက်လက်မြို့နယ် ဒွန်တဲကုန်းရွာ၌ နေထိုင်လျက်ရှိသည်။)

**၃၄။ အရှင်ဝိစိတ္တာသိဒ္ဓိ။** ။ ၁- သမ္မောဟဝိနောဒနီဘာသာဋီကာ၊ ၂-ဓာတုကထာ မူလဋီကာနိဿယ၊ ၃-ပုဂ္ဂလပညတ် မူလဋီကာနိဿယ၊ (ယခုအခါ ချောက်မြို့ မဟာစည်သာသနာ့ရိပ်သာ၏ နာယကဖြစ်တော်မူသည်။)

**၃၅။ အရှင်သဒ္ဒိက(ဒီဃဘာဏက)။** ။ ၁-သမ္မောဟဝိနောဒနီဘာသာဋီကာ၊ ၂-ဓာတုကထာ မူလဋီကာနိဿယ၊ ၃-ပုဂ္ဂလပညတ် မူလဋီကာနိဿယ၊ (ယခုအခါ သာသနာ့တာဝန်ကို ဆက်လက် ထမ်းဆောင်လျက် ရှိသည်။)

**၃၆။ အရှင်သုစိတ္တ(အစိုးရဓမ္မာစရိယ)။** ။၁-ကထာဝတ္ထုဘာသာဋီကာ၊ ၂ - ဝိဘင်းမူလဋီကာ

နိသယ၊ ၃-ယမကဘာသာဋီကာ၊ (ယခုအခါ အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်၏ နာယက အဖွဲ့ဝင် စာချဘုန်းကြီးအဖြစ် တာဝန်ထမ်းဆောင်လျက် ရှိတော်မူသည်။)

**၃၇။ အရှင်မဟိန္ဒ (သာသနာလင်္ကာရ)**။ ။ ၁-အဋ္ဌကထာအခြေပြု၊ (ယခုအခါ လူ့ဘောင်သို့ ပြောင်းသွားပြီ။)

**၃၈။ အရှင်ဉာဏိန္ဒ (သာသနာလင်္ကာရနှင့် သာသနဓဇသိရီပဝရဓမ္မာစရိယ)**။ ။ ၁-ယမကဘာသာဋီကာ၊ ၂-ဓာတုကထာဘာသာဋီကာ၊ (ယခုအခါ တောင်ငူမြို့ကျောင်းတိုက်၏နာယကဖြစ်တော်မူသည်။)

**၃၉။ အရှင်အဂ္ဂဓမ္မ (သာသနာလင်္ကာရနှင့် အစိုးရဓမ္မာစရိယ)**။ ။ ၁-ဓာတုကထာဘာသာဋီကာ၊ ၂-ပုဂ္ဂလပညတ်ဘာသာဋီကာ၊ ၃-ကထာဝတ္ထုဘာသာဋီကာ၊ ၄- ဗုဒ္ဓါနုဿတိဘာဝနာ၊ (ယခုအခါ လူ့ဘောင်သို့ ပြောင်း၍ အမရပူရမြို့ နန်းမတော် ရပ်ကွက်၌ **ဦးအောင်မြတ်** ဖြစ်၍ နေလေပြီ။)

**၄၀။ အရှင်ဓမ္မိကာဘိဝံသ (သာသနာလင်္ကာရနှင့် အစိုးရဓမ္မာစရိယ၊ ပရိယတ္တိသာသနဟိတဓမ္မာစရိယ)**။ ။၁-ဓာတုကထာဘာသာဋီကာ (ယခုအခါ ရန်ကုန်မြို့ ရွှေတောင်ကုန်းသာသနာ့ရိပ်သာ၌ သီတင်းသုံးတော်မူသည်။)

**၄၁။ အရှင်စန္ဒဝံသာဘိဝံသ (သာသနာလင်္ကာရနှင့် အစိုးရဓမ္မာစရိယ၊ ပရိယတ္တိသာသနဟိတဓမ္မာစရိယ)**။ ။၁-ယမကဘာသာဋီကာ၊ ၂-ပဋ္ဌာနဘာသာဋီကာ၊ (ယခုအခါ ရွှေဘိုမြို့ ပါဠိကာရီ တုလွတ်ကျောင်းတိုက်၌ သာသနာပြုလျက်ရှိသည်။)

**၄၂။ အရှင်နန္ဒဝံသ(သာသနာလင်္ကာရ)**။ ။ ၁-ဝိဘင်းမူလဋီကာနိဿယ၊ (ယခုအခါ မင်းကွန်းတောင်တန်း အနောက်ဘက် ကင်းမင်းဆည်ရွာကျောင်း၌ သီတင်းသုံးတော်မူသည်။)

**၄၃။ အရှင်ဇနပတိ(အစိုးရဓမ္မာစရိယ, အဂ္ဂတ္တရနိကာယ ပါဠိပါရဂူ)**။ ။ ၁-သီလက္ခန်ဘာသာဋီကာ၊၂-ဝိဘင်းပါဠိတော်နိဿယ၊ ၃-ဓာတုကထာပါဠိတော်နိဿယ၊ ၄-ပုဂ္ဂလပညတ္တိပါဠိတော်နိဿယ၊ ၅-ကထာဝတ္ထုပါဠိတော်နိဿယ၊ ၆-ကထာဝတ္ထုပါဠိတော် မြန်မာပြန်၊ ၇-နောက်ဆုံးဆယ်လ မြတ်ဗုဒ္ဓ၊ ၈-ပဗ္ဗဇိတ ဒုလ္လဘကထာ၊ ၉-ပုဂ္ဂလပညတ်မူလဋီကာနိဿယ၊ ၁၀-ကထာဝတ္ထုမူလဋီကာနိဿယ၊ ၁၁-ယမက မူလဋီကာနိဿယ၊ ၁၂-ဝိနည်းမဟာဝါပါဠိတော် နိဿယ၊ ၁၃-ပရိဝါပါဠိတော်နိဿယ၊ ၁၄-ကထာသလ္လာပသိက္ခာ၊ (ယခုအခါ အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်ကြီး၌ နာယကအဖွဲ့ဝင် စာချဝန်ဆောင် ဖြစ်တော်မူသည်။)

**၄၄။ အရှင်ဝိစယ (သာသနာလင်္ကာရနှင့်အစိုးရဓမ္မာစရိယ)** ။ ။ ၁-နောက်ဆုံးဆယ်လ မြတ်ဗုဒ္ဓ၊ (ယခု မန္တလေးမြို့ ပတ္တမြားကျောင်းတိုက်၌ စာချဘုန်းကြီး ဖြစ်တော်မူသည်။)

**၄၅။ အရှင်ဓနိန္ဒ (အစိုးရဓမ္မာစရိယ)**။ ။ ၁-သုတ်မဟာဝဂ္ဂဘာသာဋီကာ၊ (ယခုအခါ မြင်းခြံမြို့နယ် ကျိုက်ထီးရိုးကျောင်းတိုက်၌သီတင်းသုံးတော်မူသည်။)

**၄၆။ အရှင်သီလာစာရ(အစိုးရဓမ္မာစရိယ)** ။ ။ ၁-သုတ်မဟာဝဂ္ဂဘာသာဋီကာ၊ (ယခုအခါ မဟာဂန္ဓာရုံကျောင်းတိုက်ကြီး၌ နာယကအဖွဲ့ဝင် စာချဝန်ဆောင် ဖြစ်တော်မူသည်။)

**၄၇။ အရှင်ပါကဋ(အစိုးရဓမ္မာစရိယ)** ။ ။ ၁-သုတ်မဟာဝဂ္ဂပါဠိတော်နိဿယ၊ (ယခုအခါ မဟာဂန္ဓာရုံကျောင်းတိုက်ကြီး၌ အနုနာယကအဖွဲ့ဝင် စာချဝန်ဆောင် ဖြစ်တော်မူသည်။)

**၄၈။ အရှင်ကဝိနန္ဒ (ပဋ္ဌာန်းစာချဘုန်းကြီး)** ။ ။ ၁-သုတ်မဟာဝါပါဠိတော်နိဿယ၊ ၂-ကထာသလ္လာပသိက္ခာ၊ ၃-မဟာဂန္ဓာရုံဝတ်ရွတ်စဉ်၊ (ယခုအခါ ကရင်ပြည်နယ် ကော့ဝါလဲ တောရကျောင်း၌ သီတင်းသုံးတော်မူသည်။)

**၄၉။ ရှင်ဉာဏောဘာသ (သာသနာလင်္ကာရ)** ။ ။ ၁-စူဠဝဂ္ဂဘာသာဋီကာ၊ (ယခုအခါလူ့ဘောင်သို့ ပြောင်း၍ ရှမ်းပြည်နယ်၌ ကျောင်းဆရာတာဝန်ထမ်းသော "ဦးကြည်ခိုင်" ဖြစ်၍ နေလေပြီ။)

**၅၀။ အရှင်အရိယဝံသ** ။ ။ ၁-ဝိဘင်းပါဠိတော်နိဿယ၊ (ယခုအခါ လူ့ဘောင်သို့ ကူးပြောင်း၍ တွံတေးမြို့နယ်၌ နေထိုင်သည်။)

**၅၁။ ရှင်ကုလဝံသ(သာသနာလင်္ကာရ)** ။ ။ ၁-စူဠဝဂ္ဂဘာသာဋီကာ၊ (ယခုအခါ လူ့ဘောင်သို့ ပြောင်းသွားပြီ။)

**၅၂။ ရှင်ယုဝဏ္ဏ(သာသနာလင်္ကာရ)** ။ ။ ၁-စူဠဝဂ္ဂဘာသာဋီကာ။

**မှတ်ချက်။** ။ဤဖော်ပြခဲ့ပြီး အရှင်မြတ်တို့ကဲ့သို့ ဆရာတော်၏ ကျမ်းစာမူကြမ်းတို့၌ များစွာရေးကူး ပေးရခြင်း မဟုတ်သော်လည်း အနည်းငယ်မျှ ကူညီရသော ပုဂ္ဂိုလ်များ, အခြားစာပေတို့ကို အချော ကူးပေးရသော ပုဂ္ဂိုလ်များလည်း ရှိကြပါသေးသည်၊ သိမှိသမျှ ရေးသားဖော်ပြထားခြင်း ဖြစ်ပါသည်၊ လစ်လပ်၍ ကျန်ရစ်ပါလျှင်လည်း ခွင့်လွှတ်ကြပါရန် ဟောင်းပန်အပ်ပါသည်။

# ဆရာတော်၏ နံနက်ခင်းဩဝါဒများမှ
## အငြင်းသန်တဲ့ လောကကြီး

*"**နာဟံ ဘိက္ခဝေ လောကေန ဝိဝဒါမိ, လောကောဝ မယာ ဝိဝဒတိ။**"

ဘိက္ခဝေ - ဘိက္ခုတို့၊ အဟံ - ငါဘုရားသည်၊ လောကေန- လောကကြီးနှင့်၊ ဝါ- လူတွေနှင့်၊ န ဝိဝဒါမိ- ငြင်းနေသည် မဟုတ်၊ လောကောဝ- လောကကြီးကသာ၊ ဝါ-လူတွေကသာ၊ မယာ-ငါဘုရားနှင့်၊ ဝိဝဒတိ-ငွတ်လာ၍ ငြင်းနေဘိ၏"တဲ့။

**လောကကြီးနှင့် တစ်ဖက်တစ်လမ်း**

ယနေ့ နံနက်ခင်းဝယ် မည်သည့် ဩဝါဒကို ပေးလိုသည် မသိ, ဆရာတော်သည် အထက်ပါ အတိုင်း အစပျိုး၍ ချီနေလေပြီ၊ နေ့စဉ်နေ့တိုင်း နံက်ခင်း ဩဝါဒပေးရာတွင် သင့်တော်သလို, အကြောင်းဆိုက်သလို ပေးတော်မူမြဲ ဖြစ်သည်၊ မည်သည့် အကြောင်းမျှ ထူးထူးခြားခြား မရှိလျှင် ပါဠိတော်များမှသော်လည်းကောင်း, ဇာတ် အဌကထာများမှသော်လည်းကောင်း သိဖွယ်ကောင်းသော အချက်အလက်တို့ကို ထုတ်ဖော်ပြောပြ ဆုံးမတတ်လေသည်။

ယနေ့နံနက်တွင်ကား ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်လာ ဘုရားစကားတော်ကို ထုတ်ဖော်ပုံဆောင်နေလေပြီ။

"မြတ်စွာဘုရားက ပြောတယ်၊ လူတွေကတဲ့, ငါဘုရားနှင့်ဖက်ပြီး ငွတ်ငြင်းနေကြသလိုပဲတဲ့, ငါက တော့ ငြင်းတာ မဟုတ်ပါဘူးတဲ့, ဘာလို့လဲ ဆိုတော့ "**န ဘိက္ခဝေ ဓမ္မဝါဒီ ကေနစိ လောကသ္မိံ ဝိဝဒတိ**" တဲ့၊ အရှိကို အရှိအတိုင်း အမှန်ကို အမှန်အတိုင်း ပြောတဲ့သူဟာ လောကမှာ ဘယ်သူနှင့်မှ ငြင်းခုံရာ မရောက်ပါဘူးတဲ့။

တစ်ယောက်နှင့်အများ ဖြစ်ပစေတဲ့၊ အမှန်ကို အမှန်အတိုင်း ပြောတဲ့သူဟာ ငြင်းတယ်လို့ မဆိုသာဘူးတဲ့၊ ဒါ့ကြောင့် ငါဘုရားက ငြင်းတာမဟုတ်ပါဘူးတဲ့၊ သူတို့ကသာ ငွတ်ငြင်းနေကြတာတဲ့။

ငါဘုရားက ပြောတယ်၊... "လောကကြီးမှာ သင်္ခါရဟူသမျှ အနိစ္စ, ဒုက္ခ, အနတ္တ, အသုဘ"လို့ ဆိုတာကို သူတို့တွေက နိစ္စ, သုခ, အတ္တ, သုဘလို့ စွဲနေကြတယ်၊ ပြောင်းပြန်ကြီး, ပြောလို့ မရဘူး, ဖြုတ်လို့ကို မရနိုင်ဘူး ဖြစ်နေတယ်၊ ဒါသည်ပင် ငါဘုရားကို ပြန်ပြီး ငြင်းနေသလိုပဲပေါ့တဲ့။

ဒါကြောင့် "အတော် အငြင်းသန်တဲ့ လောကကြီး"လို့ ပြောခဲ့တာ။

ဒီတော့ ငါဘုရား တစ်ပါးတည်းက တစ်ဖက်, လောကကြီးတစ်ခုလုံးက တစ်ဖက်လို ဖြစ်နေတယ်တဲ့၊ အမြင်ချင်းမှ မတူကြဘဲကိုး။

---

* ခန္ဓဝဂ္ဂသံယုတ်ပါဠိတော်၊ ပုပ္ဖသုတ် – ၁၁၃၊

## အမြင်ချင်းက မတူကြသဖြင့်

ဟုတ်ပါသည်၊ ကလေးငယ်၏ အမြင်သည် လူကြီး၏ အမြင်ကို မမီသကဲ့သို့ ပုထုဇဉ်သားတို့၏ အမြင်သည်လည်း အရိယာပုဂ္ဂိုလ်တို့၏ အမြင်ကို မမီနိုင်ကြတော့၊ တောင်ခြေ တောင်အောက်က လူ၏ မြင်ကွင်းသည် တောင်ပေါ်ကလူ၏ မြင်ကွင်း လောက် ကျယ်ကျယ်ပြန့်ပြန့် မမြင်နိုင်သလို ဖြစ်ပါ လိမ့်မည်၊ ဤသို့ အမြင်ချင်းမတူကြတာ, ခွေးသေ ကောင်ပုပ်သည် လူတို့၏ အမြင်တွင် ရွံရှာဖွယ် စက်ဆုပ်ဖွယ် ဖြစ်သော်လည်း လင်းတ သိန်း စွန် ကျီးကန်းတို့၏ အမြင်တွင်ကား နတ်သုဒ္ဓါသဖွယ် ဖြစ်၍ နေကြလေတော့သည်။

"မနေ့ညတုန်းက တောင်သမန်ရွာဘက်က ရေဒီယိုဆိုလား ကတ်ဆက်ဆိုလား မသိဘူး, အသံ ချဲ့စက်ကြီးနဲ့ ချဲ့ပြီး ဖွင့်ထားလိုက်ကြတာ, ဒီဘက် က ဒီအတိုင်း ကြားနေရတယ်၊ ကြားရရုံမကဘူး၊ ဟွန်းကြီးကို ဒီဘက်လှည့်ထားထင်ပါရဲ့၊ အသံတွေ ဟာ ဒီကျောင်းတိုက်အထိ လာပြီး ဆူပွက်နေတယ်၊ သူတို့က ဆူတာ ပွက်တာ တယ်ကြိုက်ကြတာကိုး၊ ဘုန်းကြီးတို့က တိတ်တိတ်ဆိတ်ဆိတ် ကြိုက်တာ၊ ဒီတော့ အနှောင့်အယှက် ဖြစ်တာပေါ့၊ အဲလို... အမြင်ချင်း မတူကြတာ။

လူတွေဟာ ခက်တယ်, သုမင်္ဂလ ဒုမင်္ဂလပွဲ ကလေးရှိရင် "ဘယ့်နှယ်လဲ ငြိမ်လှချည်လား, ဆူဆူ ပွက်ပွက်ကလေး မလုပ်ကြတော့ဘူးလား၊ လုပ်ဦး မှပေါ့၊ ဒါမှ အလှူနှင့် တူတာ"တဲ့၊ သူတို့ ပြောတာ ကကို "ဆူဆူပွက်ပွက်ရှိမှ အလှူနှင့် တူသတဲ့"၊ အသံချဲ့စက်ဖွင့်ဖို့ ပြောနေတာ၊ ဘယ်လောက် ကာမဂုဏ်အာရုံ ကြိုက်ကြသလဲဆိုရင်။

ဖွင့်ပဲ ဖွင့်ပါဦး, တိုးတိုးတိတ်တိတ်ဆို တော်သေး ရဲ့၊ လူတွေက နားမလည်ကြလို့ပါ၊ အမှန်က ဘယ် ဟာမဆို ပွတ်ပါ တိုက်ပါများရင် ပွန်းတာပဲ၊ ပွန်းရင် ပျက်စီးလွယ်တာပဲ။

## ပွန်းပါများရင် ပျက်လွယ်တာပဲ

ဓားကို ဓားသွေးကျောက်ပေါ် တင်ပြီး တိုက်ရင် ပွန်းသလို, သနပ်ခါးတုံးကိုလဲ ကျောက်ပြင်ပေါ် တင်သွေးရင် ပွန်းသလိုပဲ၊ သဒ္ဒါရုံဆိုတဲ့ အသံတွေ က ကျယ်လောင်စွာနှင့် နားကို လာပြီး တိုက်ပါများ ခွေ့ပါများရင် နားအကြည်ဓာတ်တွေလဲ ပွန်းတာ ပဲ၊ ပွန်းပါများရင် ပျက်တာပဲ၊ အတိုင်းအဆထက် လွန်လေ ပျက်လွယ်လေပဲ။

တခြားအာရုံငါးပါးက တိုက်တဲ့အခါမှာလဲ ပွန်း တာပဲ၊ ဥပမာ မျက်စိ, မျက်စိလဲ ကြည့်ရတာတွေ များရင် ပွန်းတာပဲ၊ နှာခေါင်း လျှာ ကိုယ်တို့လဲ အတူတူပဲပေါ့၊ ပွန်းတာပဲ၊ ပွန်းပါများရင် ပျက်တာ ပဲ၊ အပျက်တွေများရင် အသက်တိုစေတော့တာပဲ၊ အသက်တိုခြင်း အကြောင်းတစ်ရပ်ပေါ့၊ ဒီတော့ အာရုံငါးပါး လိုက်စားအားကြီးတဲ့ သူတွေဟာ အသက်တိုတာပဲ။

ဒါကြောင့် တို့မြတ်စွာဘုရားက ဒါတွေပယ်ပြီး, ဆူဆူပွက်ပွက်တွေလဲ တတ်နိုင်သမျှ ကွင်းရှောင်ပြီး တိတ်ဆိတ်တဲ့ တောအရပ်တွေမှာ သွားပြီး သီတင်း သုံးတော်မူတာ။

ကဲ-တို့ဘုရားဘဝကို သုံးသပ်ကြည့်ကြစမ်း, မွေး တော့ ဘယ်မှာ မွေးသလဲ၊ လုမ္ဗိနီဥယျာဉ်တောထဲ မှာ၊ အဲဒီနောက် နန်းတော်မှာ ခဏနားပြီး ၂၉ နှစ် အရွယ်ရောက်တော့ တောထွက်တယ်၊ တောထဲ မှာပဲ တရားကျင့်တယ်၊ တောထဲမှာပဲ တရားရတယ်။

အဲဒီနောက် တောထဲမှာပဲ အနေ များတယ်၊ အကြောင်းအားလျော်စွာ ဆွမ်းခံကိစ္စ အစရှိသည် တို့ကြောင့် မြို့ထဲ ရွာထဲ လာရပေမယ့် ပြီးရင် တောထဲ ပြန်တာပဲ၊ လူတွေနှင့် ဝေးတဲ့ တောရ ကျောင်းကို ပြန်တာပဲ။

တပည့် သာဝကတွေကိုလဲ ဒီနမူနာအတိုင်း နေကြဖို့ ဟောပြတာပဲ၊ အဲ-နောက်ဆုံး ပရိနိဗ္ဗာန် စံတော့ကော ဘယ်မှာ စံသလဲ၊ ကုသိနာရုံအင်ကြင်း တောထဲမှာပဲ၊ တစ်ဘဝလုံး တောထဲမှာ များတယ်။

ဒါကြောင့် တို့ဘုရားကိုယ်တော်မြတ်ကြီးကို "တောပျော်ကိုယ်တော်ကြီး"လို့ ပြောရင်တောင် ရတယ်၊ ဘာ့ကြောင့် တောမှာ ပျော်ရသလဲဆိုရင် စောစောက ပြောခဲ့တဲ့ အကြောင်းတွေကြောင့် ပါပဲ။

## ကြွက်စီ ကြွက်စီနှင့် ငါးစိမ်းသည်တွေလို

အမရပူရမြို့၏ အရှေ့ဘက်တွင် မဟာဂန္ဓာရုံ ကျောင်းတိုက် တည်ရှိ၏၊ မဟာဂန္ဓာရုံတိုက်၏ အရှေ့ဘက်တွင် အလွန်ကျယ်ပြောသော တောင်သမန်အင်း ရေပြင်ကြီး တည်ရှိသည်၊ အနံ အပြန့် သည်ပင် တစ်မိုင်နီးပါး ကျယ်ပေမည်၊ ကြည်နူးဖွယ် ကောင်း၏၊ ထိုအင်းရေပြင်ကြီး၏ အရှေ့ဘက် တွင်မှ သမိုင်းလာ နာမည်ရ "တောင်သမန်ရွာကြီး" တည်ရှိသည်၊ လယ်ယာ ချောင်းမြောင်းနှင့် စိုက်ပျိုး မွေးမြူမှုတို့ကို ပြုလုပ်၍ အသက်မွေးကြ၏၊ ထိုရွာကြီးမှ ဖွင့်လိုက်သော အသံချဲ့စက်အသံသည် စူးစူး ဝါးဝါးနှင့် ရေပြင်ကို ကျော်ဖြတ်၍ မဟာဂန္ဓာရုံ တိုက်သို့အထိ လာ၍ ခတ်သောကြောင့် ထိုကိစ္စနှင့် စပ်၍ ဩဝါဒပေးနေခြင်း ဖြစ်ပေသည်။

လူတို့သည် အကျိုးအပြစ်ကို မမြင်နိုင်ကြသဖြင့် အာရုံငါးပါးကို အလွန်အကျွံ ခံစားနေကြပုံ၊ ထို့ကြောင့် အသက်တိုလွယ်ကြပုံတို့ကိုပါ ရှင်းပြနေတော်မူ၏၊ ဘုရားကိုယ်တော်မြတ်ကြီးသည်ကား... ဤအကျိုးအပြစ်တို့ကို အကုန်မြင်ထားပြီး ဖြစ်၍ ထိုအာရုံများကို ရှောင်ကြဉ်တော်မူပုံ၊ အမြတ်ချင်း မတူပုံတို့ကို ရှင်းပြတော်မူပြီးနောက် ဆက်လက်၍ မိန့်မြွက်နေပြန်သည်။

*တစ်ခါတုန်းက မြတ်စွာဘုရားဟာ နောက်လိုက် နောက်ပါ သံဃာ များစွာနှင့် ဒေသစာရီ လှည့်လည်တော့ ကောသလတိုင်းက ဣစ္ဆာနင်္ဂလ ပုဏ္ဏားရွာကို ရောက်သွားတယ်၊ ရွာပြင်ဘက်က ဣစ္ဆာနင်္ဂလ တောအုပ်ထဲမှာပဲ သီတင်းသုံးတော်မူတယ်။

ဒီသတင်းကို ရွာသူ ရွာသားတွေ ကြားတော့ စားဖွယ် သောက်ဖွယ် လှူဒါန်းဖွယ်တွေနှင့် ဘုရားထံကိုလာကြတယ်၊ ဆူဆူပွက်ပွက်နှင့် အလုအယက် လှူကြဖို့ပါပဲ၊ တောအုပ်ထဲက ကျောင်းဝရောက်တော့ ရုတ်တရက် မဝင်သေးဘဲ အပြင်ဘက်မှာပဲ ကြွက်စီ ကြွက်စီနှင့် ကျယ်ကျယ် လောင်လောင် စကားတွေ ပြောနေကြတယ်။

ဒီတုန်းက ဘုရား အလုပ်အကျွေးက အရှင်နာဂိတ ဖြစ်လို့ မြတ်စွာဘုရားက မေးတယ်၊... "နာဂိတ ကြွက်စီ ကြွက်စီနှင့် ငါးစိမ်းသည်တွေ ဝယ်ကြ ရောင်းကြသလို ကျောင်းပြင်ဘက်က ဘယ်သူတွေလဲ"

အဲသလို မြတ်စွာဘုရားက မေးတော့ အရှင်နာဂိတက "မှန်ပါဘုရား, ဣစ္ဆာနင်္ဂလရွာသားတွေပါ, ဘုရားနှင့် သံဃာကို လှူဖို့ တန်းဖို့အတွက် ခဲဖွယ် ဘောဇဉ်တွေ များစွာ ယူလာကြပါတယ် ဘုရား၊ သူတို့တွေ စကားပြောနေကြတာပါ။"

## မစင်ဘင်ပုပ် ချမ်းသာလုပ်လို့

ဒီတော့ မြတ်စွာဘုရားက "**မာဟံ နာဂိတ ယသေန သမာဂမံ, မာ စ မယာ ယသော**"တဲ့၊ "နာဂိတ ... ငါဘုရားသည် အခြွေအရံ အကျော်အစော လာဘ်လာဘနှင့် မရောနှော မတွေ့ဆုံလို, အခြွေအရံ အကျော်အစော လာဘ်လာဘများက လည်း ငါဘုရားနှင့် လာပြီး မရောနှော မတွေ့ဆုံပါစေနှင့်"လို့ မိန့်တော်မူလိုက်တယ်။

ဒါကို အရှင်နာဂိတက ကြားဝင်တယ် "မြတ်စွာဘုရား, သူတို့ ယူလာကြတဲ့ လာဘ်လာဘတွေကိုလဲ အလှူခံတော်မူပါ၊ သူတို့တစ်တွေ ဝိုင်းအုံချဉ်းကပ်ကြတာကိုလဲ ခွင့်ပြုကော်မူပါ၊ ဤသို့ လက်ခံခြင်း အားဖြင့် မြတ်စွာဘုရား သွားလေရာ လာလေရာ ရောက်လေရာ အရပ်တိုင်းမှာ အခြံအရံတွေ ဖြစ်ပါလိမ့်မယ်ဘုရား"တဲ့။

အဲဒီအခါမှာ မြတ်စွာဘုရားက "နာဂိတ-အကြင်သူသည် ငါဘုရားကဲ့သို့ အတုမရှိ ငြိမ်းအေးသောချမ်းသာကို မရစဖူးဘူး၊ ထိုသူသည် ဤလာဘ် လာဘနှင့် အခြွေအရံ အကျော်အစောကလေးများကိုပင် အဟုတ်ကြီးထင်ပြီး မက်မောကာ မစင်ဘင် ပုပ်ကို ချမ်းသာအောင်လုပ်၍ သာယာစရာ မှတ် ထင်ပေရာ၏"လို့ မိန့်လိုက်တယ်။

ဆိုလိုတာက ငါဘုရားလို အလွန် အေးငြိမ်း ချမ်းမြေ့တဲ့ သုခကို မရကြဖူးတော့ ဒီ လာဘ်လာဘ ကလေးတွေကိုပဲ, ဒီ အခြွေအရံကလေးတွေကိုပဲ

* အင်္ဂုတ္တိုရ်ပါဠိတော်၊ အဋ္ဌကနိပါတ်, ယသသုတ် – ၁၅၄၊

ဒီတော့ မြတ်စွာဘုရားက [၁] "နာဂိတ ငါဘုရားသည် တောလမ်းမှာ ခရီးသွားနေတယ် ဆိုပါတော့၊ အဲဒီအခါမှာ ရှေ့နောက်ဝဲယာ အခြွေအရံ မပါတဲ့ အပြင် ခရီးသွားသူ တစ်စုံတစ်ယောက်ကိုမျှ မမြင်ရအံ့၊ ထိုအခါမျိုးတွင် အောက်ထစ်ဆုံး ကျင်ကြီးကျင်ငယ် စွန့်ရခြင်းသည်ပင် (ချေးယို သေးပေါက်ကိစ္စသည်ပင်) ချမ်းသာ လွတ်လပ်ပေသေး၏"လို့ ပက်ပက်စက်စက် နောက်ဆုံး မိန့်တော်မူပစ်လိုက်တယ်။

အလွန့်အလွန်ကြီးကျယ်တဲ့ ချမ်းသာသုခလို့ ထင်နေကြတာတဲ့၊ အမှန်မှာ ငါဘုရားရထားတဲ့ ချမ်းသာတွေနှင့်စာလျှင် ဒီဟာတွေဟာ "မီဠ္ဍသုခ" ချေးချမ်းသာ သေးချမ်းသာမျှလောက်ပဲရှိတယ်"လို့ ရက်ရက်စက်စက် ဆိုတော်မူလိုက်တယ်။

ဒါကိုပဲ အရှင်နာဂိတက ထပ်မံ ကဲပြီးတော့ လျှောက်ပြန်သေးတယ်၊ "မြတ်စွာဘုရားတဲ့, သူတို့ကို လိုက်လျော လက်ခံခြင်းအားဖြင့် မြတ်စွာဘုရားမှ ဝန်းကျင်ပတ်ခြာ ပရိသတ်အခြွေအရံတွေ ပေါဖို့ များဖို့သာ ဖြစ်ပါတယ်ဘုရား"တဲ့။

## ဝေရမ္ဘလေကြမ်းလို ဆိုးသွမ်းပါဘိ

ဤကဲ့သို့ လာဘသက္ကာရသိလောက အခြွေအရံ အကျော်အစောနှင့် ပတ်သက်လာလျှင် မြတ်စွာဘုရားက ပစ်ပစ်ခါခါ မိန့်တော်မူတတ်၏၊ အကြီးအကျယ် အပြစ်ပြောတော်မူသည်၊ သို့သော် လောကကြီးတစ်ခုလုံး လူတွေကမူ ထို လာဘသက္ကာရ သိလောကတွေကိုမှ အဟုတ်ကြီး ထင်နေကြပြန်၏၊ အသားပေးကြ၏၊ ဦးစားပေးကြ၏၊ ပကာသန လုပ်ကြ၏၊ မရသေးလျှင် ရအောင် ကြံဆောင်ကြကုန်၏၊ လောကလူသားများ အားထုတ်ကြံဆောင်ကြသည်မှာ ရှိစေဦးတော့၊ ထိုလူတွေကို အတုယူ၍ ရဟန်းတို့က အားထုတ်ကြရာ၌ကား များစွာ အပြစ်ရှိ၍ အပါယ်ဒုဂ္ဂတိလက်မှတ်ကို ယူကြသလို ဖြစ်တော့၏။

"ဤလာဘသက္ကာရသိလောကလွှမ်းမိုးမှုကြောင့် အပါယ်ရောက်ရသော ပုဂ္ဂိုလ်တို့လည်း မနည်းလှတော့ချေ၊ အလွန်မြင့်သော မိုးကောင်းကင်ပြင်၌ ကြမ်းတမ်းသော ဝေရမ္ဘလေတစ်မျိုး တိုက်ခတ်လျက် ရှိ၏၊ ထိုလေပြင်းမိသော ငှက်သည် ခေါင်းတခြား ကိုယ်တခြား ခြေလက်အင်္ဂါတခြား ပျက်ပြားရသကဲ့သို့ ထို့အတူ ဤလာဘသက္ကာရသိလောက လွှမ်းမိုးမှု ခံရသော ရဟန်းသည်လည်း ထိုအလားပင် ပျက်ပြားရတတ်၏"ဟု လာဘသက္ကာရသံယုတ်၌ ဟောတော်မူထားသည်။

"ဘုန်းကြီးတို့က ဒီအကြောင်းအရာတွေ ဒီစာပေတွေကို ဟိုစောစောပိုင်းက ခပ်ရွှယ်ရွှယ်တုန်းကအတိုင်း တက်ဖူးထားလို့, ပြီးတော့ ဆရာသမားတွေထံက အဆုံးအမတွေ ရထားလို့ ဒါတွေသဘော ပေါက်နေပါတယ်။

ဒါကြောင့်လဲ ဒီကိစ္စမျိုးတွေနှင့် ကြုံလာရင်ဘုန်းကြီးမှာ ဆင်ခြင်နိုင်ပါတယ်၊ ဒီလို လာဘသက္ကာရ သိလောကတွေနှင့် မပြည့်စုံလို့လဲ ဝမ်းမနည်းဘူး, အားမငယ်ပါဘူး၊ ပြည့်စုံတဲ့သူတွေကိုလဲ ဘုန်းကြီးက မနာလို မဖြစ်ပါဘူး၊ ပြီးတော့ အထင်လဲ မကြီးပါဘူး။

## ငါးမျှားချိတ်မှ အစာတွေလို

[၂] ဘာလို့လဲဆိုတော့ ဒီလာဘသက္ကာရသိလောကတွေဆိုတာ ငါးမျှားချိတ်မှာ တပ်ထားတဲ့အစာတွေလိုပဲတဲ့၊ အဲဒီအစာတွေဟာ အပြင်က ကြည့်ရင် စားချင်စရာ, အတွင်းထဲမှာက သံဆူးကောက် ပါတယ်၊ ဒါကို သူတို့ မမြင်ရှာဘူး၊ အဲဒီ အစာကို မျိုမိတဲ့ငါးဟာ လျှာခင်ကို ချိတ်ဆွဲ အဖြတ်ခံရပြီး

---

၁။ "ယသ္မာဟံ နာဂိတ, သမယေ အဒ္ဓါနမဂ္ဂပ္ပဋိပန္နော န ကဉ္စိ ပဿာမိ ပုရတော ဝါ ပစ္ဆတော ဝါ, ဖာသု မေ, နာဂိတ, တသ္မိံ သမယေ ဟောတိ အန္တမသော ဥစ္စာရပဿာဝကမ္မာယာ"တိ။ (အံ ပါ အဋ္ဌက-၁၅၇။)

၂။ သံ-ပါ-နိဒါန ဗလိသသုတ်-၄၂၄။

အသတ်ခံရသလို ဒီ လာဘသက္ကာရ သိလောက အစာကို မျိုမိလို့ ရဟန်းတွေလဲ ဒီအတိုင်းပဲ၊ မာရ်နတ်ရဲ့ အသတ်ကို ခံကြရမယ်လို့ ဘုရားဟောထားတာ ရှိတာကိုး။

ဘုန်းကြီး ပခုက္ကူမှာ စာသင်သားအဖြစ်နှင့် နေတုန်းက ဒီသဘောမျိုးတွေ များစွာတွေ့ရပါတယ်၊ ဘုန်းကြီးက ဘုန်းကံ နည်းတယ်၊ လာဘ်လာဘ ရှားပါတယ်၊ ဒါပေမယ့် အားမငယ်ပါဘူး၊ ဒီစာတွေနှင့် အားတင်းထားနိုင်ပါတယ်။

တချို့ကိုယ်တော်များ လာဘ်လာဘ ပေါကြတယ်၊ ဘုန်းကံ ကြီးမားကြတယ်၊ သူတို့ ကံတွေ ပါရမီတွေပေါ့လေ၊ ဆွမ်းခံပြန်လာရင် သပိတ်ထဲလဲ အပြည့်၊ သပိတ်ဖုံးပေါ်လဲ မုန့်တွေပဲတွေနှင့် ငှက်ပျောသီးတွေနှင့် နို့သာပုဏ္ဏက်ပျောများဆို အဖီး လိုက်တင်လို့ မို့လို့ မောက်လို့ပေါ့။

သူတို့ မျက်နှာကို ကြည့်လိုက်ရင် ပြုံးလို့၊ ပါးစပ်မှာလဲ ကွမ်းကလေးများ မြုံထားလို့ နှုတ်ခမ်းကလေးများတောင် နီရဲရဲလို့၊ "အရပ်ထဲက ဘုဦးပေးခဲ့ပြီးပြီတဲ့၊ နက်ဖြန်လဲ ကြွပါဦး"လို့ ပင့်လိုက်သေးသတဲ့၊ ဝင့်ကြွားတဲ့ ဟန်မျိုးနဲ့ ပြောတယ်။

ဒီနေရာမှာ ရှေးက ပါရမီတွေ ဆည်းပူးခဲ့လို့ ဘုန်းကံကြီးမားရုံ ကြီးမားတာကတော့ အပြစ်မရှိပါဘူး၊ ဒါပေမယ့် သူ့ကြည့်ရတာ "ငါ့လိုလူ ဇမ္ဗူ ရှိသေးရဲ့လား"ဆိုတဲ့ ဟန်မျိုးနှင့် မာနကလေး ပါနေပုံ၊ သူများကို အထင်သေးပုံ ပေါ်နေတယ်၊ ဒီမှာ အပြစ်က ဝင်လာတာ။

ဒီတော့ ဘာနှင့် တူသွားသလဲဆိုရင် စာထဲမှာ ပါတဲ့ "ချေးပိုးထိုးကောင်ကြီး"နှင့် လုံးဝတူသွားပြီ လို့ ဘုန်းကြီးက မှတ်ချက်ချလိုက်တယ်၊ ဒီအပြစ် တွေကို မမြင်ရှာတဲ့သူကိုလဲ သနားသွားမိတယ်။

## ချေးပိုးထိုးကြီး၏ မာန်မာနလို

ဒီလိုတဲ့ *"လာဘသက္ကာရသံယုတ်မှာ (မီဠှကသုတ်)ဆိုတာ ပါတယ်၊ ကျွဲချေး နွားချေးတွေကို စားနေတဲ့ "ချေးပိုးထိုးကောင်ကြီး"အကြောင်းကို ဟောထားတယ်၊ အဲဒီ အကောင်ကြီးကတဲ့၊ ချေးပုံကြီးကို လေးဖက်ကား ခွထိုင်၊ ဗိုက်ထဲလဲ အပြည့်အဝစား၊ ရှေ့မှာလဲ အများကြီး ကျန်သေး၊ နောက်နေ့တွေ အတွက်လဲ ရှိသေးတယ်၊ ငါ့လိုလူ ဇမ္ဗူမှာ ရှိသေးရဲ့လားလို့ ကြွားသတဲ့။

တခြားအကောင်တွေဟာ ငါ့လို မပြည့်စုံရှာကြဘူး၊ ဘုန်းကံ နည်းပါးကြပေတယ်လို့ အထင်သေးသတဲ့၊ ဒီဥပမာအတိုင်းပဲ၊ မမြင်မကန်းနဲ့ လာဘသက္ကာရစိတ်လွှမ်းတဲ့ ရဟန်းဟာလဲ မြို့ထဲရွာထဲမှာ ဆွမ်းခံ မပြန်ခင် မြို့ရွာထဲမှာ အဝစား၊ သပိတ်ထဲမှာလဲ အပြည့်ပါလာ၊ နက်ဖြန်ခါ ပင့်လိုက်သေးတယ်လို့ ကျောင်းကို ပြန်ရောက်တော့ ပရိသတ် အလယ် ကြွားသတဲ့။

"ဤသို့သော စိတ်ထားရှိတဲ့ ရဟန်းဟာ ပျက်ပြားဖို့ရာသာ ဖြစ်တော့တယ်"လို့ မြတ်စွာဘုရားက ဟောတော်မူထားတာ၊ ဒါကြောင့် ဘုန်းကြီးက သူတို့ တစ်တွေ လာဘ်လာဘ ပေါပေမယ့် ဒီသဘောကလေးတွေကို မြင်နေရလို့ အထင်မကြီးခဲ့ပါဘူး။

မင်းတို့ တစ်တွေလဲ သတိထားကြ၊... လာဘသက္ကာရ သိလောကရဲ့ လွှမ်းမိုးမှုကို မခံရအောင် ကိုယ်စီကိုယ်င သတိရှိကြ၊ အဲဒါတွေကို သွားပြီး မက်မောမိရင် လွှမ်းမိုးခံရပြီလို့၊ အောက်မေ့ကြ၊ လွှမ်းမိုးခံရပြီဆိုရင်လဲ ဘဝတစ်ခွင်မှာ နစ်မွန်းဖို့ လမ်းကြောင်းထဲ ရောက်သွားပြီလို့ မှတ်တော့။

ဒါအရေးကြီးတဲ့အတွက် မြတ်စွာဘုရားက သတိပေးတော်မူတာ၊ ဒါကို သတိထားပြီး နောက်ဆုံးမှတ်သားကြရမယ်၊ ဘာလဲလို့ဆိုရင် "**မာ ဘိက္ခဝေ လာဘသက္ကာရသိလောကံ ပိဟယိတ္ထ**–ရဟန်းတို့၊ လာဘသက္ကာရသိလောကကို မမက်မောကြနဲ့"တဲ့။

---

* သံ–ပါ–နိဒါန၊ မီဠှကသုတ်–၄၂၆။

## လာဘသက္ကာရသိလောကကို မမက်မောကြနှင့် မြွေဟောက်ပမာ ကြောက်စရာ

ယနေ့ နံနက်စောစော ဩဝါဒပေးချိန်တွင် ဩဝါဒမပေးမီ ထုံးစံအတိုင်း "ဣတိပိ သော ဘဂဝါ အရဟံ သမ္မာသမ္ဗုဒ္ဓေါ"အစရှိသော ဂုဏ်တော်များ၏ ပါဠိကိုလည်းကောင်း, အနက်ကိုလည်းကောင်း သံပြိုင်ညီညာ သံဃာတော် ငါးရာကျော်တို့က ရွတ်ဆိုပူဇော်နေကြ၏၊ ပြီးလျှင် လိုက်နာဖွယ် ကျင့်ကြံဖွယ် သတိထားဖွယ်တို့ကို ဖော်ပြဆုံးမသော ပါဠိဂါထာများကို အနက်နှင့်တကွ ရွတ်ဆိုကြရပြန်သည်၊ ထို့ပြင် "အညာ ဟိ လာဘူပနိသာ, အညာ နိဗ္ဗာနဂါမိနီ" အစရှိ၍ လာဘ်လာဘကို တွယ်တာမက်မောနေခြင်းတို့သည် နိဗ္ဗာန်ကို သွားဖို့လမ်းနှင့် တခြားစီသာ ဖြစ်ကြောင်း, နိဗ္ဗာန်ကို သွားသောလမ်းကလည်း လာဘ်လာဘကို တွယ်တာမက်မောခြင်းနှင့် တခြားစီသာဖြစ်ကြောင်းဟူ၍ ဓမ္မပဒဂါထာကို အနက်ပါ ရွတ်ဆိုနေကြရပြန်သည်။

နောက်ဆုံးတွင် ...

* "ဒါရုဏော ဘိက္ခဝေ လာဘသက္ကာရ သိလောကော ကဋုကော ဖရုသော အန္တရာယိကော အနုတ္တရဿ ယောဂက္ခေမဿ အဓိဂမာယ"ဟူသော လာဘသက္ကာရသံယုတ်ပါဠိတော်လာ ဘုရားမြတ်စွာ၏ ဒေသနာတော်ကို ဆက်လက် ရွတ်ဆိုကြရပြန်၏၊ ပြီးလျှင် အနက်ပါ ပေးကြရသည်။

"ဘိက္ခဝေ - ရဟန်းတို့၊ လာဘသက္ကာရ သိလောကော - လာဘ်ပူဇော်သက္ကာရ အကျော်အစောသည်၊ ဒါရုဏော-ခက်မာကြမ်းတမ်းသော သဘောရှိ၏၊ ကဋုကော - ခါးစပ် ခံခက်သော အကျိုးဆက် ရှိ၏၊ ဖရုသော-ဖမ်းကုတ်ဆွဲသကဲ့သို့ ကြမ်းကြုတ်ရဲလှ၏၊ အနုတ္တရဿ-အတုမရှိ မွန်မြတ်လှသော၊ ယောဂက္ခေမဿ - ယောဂလေးပါး၏ ကုန်ရာ နိဗ္ဗာန်ကို၊ အဓိဂမာယ-ရခြင်း၏၊ အန္တရာယိကော-အန္တရာယ်ကို ပြုတတ်ပေသတည်း။

## မေတ္တာအစေးတွေ ပြယ်ကြရသတဲ့

သံဃာတော်များသည် တစ်နေ့အတွက် ရွတ်ဆိုရမည့် စာတို့ကို ရွတ်ဆိုပြီးသောအခါ အားလုံးရပ်၍ သွားကြ၏၊ ငြိမ်သက်စွာ ဆရာတော်၏ ဩဝါဒကို ငံ့လင့်နေကြသည်၊ ဆရာတော်သည် အကြောင်းအားလျော်စွာ အခြေအနေအားလျော်စွာ တွေ့ကြုံရသည့် အရာတို့ကို ရွတ်ဆိုကြသော စာပေတို့နှင့် ဟပ်၍ ဩဝါဒပေးလေ့ ရှိတော်မူ၏၊ ထို့ကြောင့် ယနေ့ အထက်ပါ လာဘ်လာဘ ပူဇော်သက္ကာရ အကျော်အစောတို့နှင့် ပတ်သက်၍ မြွေဟောက်ပမာ ကြောက်စရာကောင်းပုံကို ဩဝါဒပေးတော်မူသည်။

"မနေ့တုန်းက ဥပုသ်နေ့လဲ ဖြစ်တော့ အားလပ်ကြလို့ မန္တလေးက ဒကာ ဒကာမ တစ်စု လာကန်တော့ကြတယ်၊ ဘုန်းကြီးကို ဟိုစဉ်တုန်းက အတိုင်း ကြည်ညိုရင်းစွဲ ရှိကြတဲ့ သူတွေပါပဲ၊ အဲ-သူတို့ ပြောကြ လျှောက်ကြတဲ့အထဲမှာ သူတို့မယ်တဲ့၊ ညီအစ်ကို မောင်နှမ ၇ ယောက်ရှိတာ, ဟိုတုန်းက တစ်ဦးနှင့်တစ်ဦး သိပ်ချစ်ကြတယ်တဲ့၊ အခုအရင်လို မဟုတ်ကြတော့ဘူးတဲ့။

"ဟဲ့-ဘယ်လို ဖြစ်ကြတာလဲ"လို့ မေးတော့...

"အမွေကိစ္စတွေပေါ့ဘုရား"တဲ့၊ "အမေတို့ အဖေတို့က အိုကုန်ပြီဖြစ်လို့ ရသင့် ရထိုက်တာလေးတွေ သား သမီးတွေကို ဝေပေးတော့ "သူနည်းတယ်, ငါများတယ်နှင့်က စတာပဲ၊ အမေတို့ အဖေတို့ အပေါ်လဲ မကျေနပ်ကြဘူး၊ ညီအစ်ကို မောင်နှမချင်း နည်းနည်းစီ စကားများကြရာက စတာပဲ"တဲ့။

ကဲ-အဲဒါသာ ကြည့်ကြပေတော့၊ ၅၂၈ သွယ် မေတ္တာနှင့် ဖွဲ့စည်းလာခဲ့ကြတဲ့ မေတ္တာ အစေး



* သံ-ပါ-သာ၊ နိဒါန-၄၂၄။

ခါတ်တွေ ပြယ်ကြရသတဲ့၊ ပြဟွစိုရ် အဆေးခါတ်တွေ ခြောက်သွေ့ကြရသတဲ့၊ ညီအစ်ကို မောင်နှမ အလွန်ခိုင်မြဲလှပါတယ်ဆိုတဲ့ သံယောဇဉ်ကြီးတွေ တောက်တောက်ခါးခါး ပြတ်ကြရသတဲ့၊ ဘယ်လောက် ကြောက်စရာကောင်းသလဲဆိုတာ...

ဒါကြောင့် မြတ်စွာဘုရားက ပြောတာ, ဒီလာဘ်လာဘတွေဟာ "ဒါရုဏော-ခက်မာကြမ်းတမ်းတယ်တဲ့၊ ကဋုကော-ခါးစပ်စပ် အရသာလို အလွန်ခံရခက်တယ်"တဲ့။

ဘယ်လောက် ဟုတ်ထားသလဲ။

## လာဘသက္ကာရသိလောက

မှန်ပါသည်၊ "အမွေ"ဟူသည်လည်း လူတို့အဖို့ လာဘ်လာဘပင် ဖြစ်၏၊ ရယူသုံးဆောင်ခံစားရသော ပစ္စည်းဟူသမျှ လူတို့အဖို့ လာဘ်လာဘပင် ဖြစ်၏၊ ရဟန်းများအဖို့ကား ဆွမ်း, သင်္ကန်း, ကျောင်း, ဆေး ပစ္စည်းလေးပါးသည် လာဘ်လာဘ ဖြစ်၏၊ ဤပစ္စည်းများသည် နူနယ်သည်ဟု ထင်ရသော်လည်း အမှန်မှာ ကြမ်းတမ်းသောသဘော ရှိ၏၊ သူတို့က ပေါက်ဖွားစေသည်မှာ မခံသာသော, နှလုံးမသာယာသော, မကျေချမ်းနိုင်သော, စိတ်ဝမ်းကွဲပြားစေသော အကျိုးတို့ကို ဖြစ်စေတတ်၏၊ နူနယ်သာယာဖွယ် ဟန်ပန်ဖြင့် လာကြသော မာကျောသော စိန်ကျောက်များသဖွယ် ဖြစ်ကြသည်။

ထို့ပြင် "သက္ကာရ"ဟူသည် ကောင်းစွာ ပြုပြင်စီမံထားအပ်သော ထိုပစ္စည်းတို့ကို ရရှိခြင်း, ထိုပစ္စည်းတို့ဖြင့် အလေးအမြတ် အပြုခံရခြင်း, ပူဇော်ခံရခြင်း, အရိုအသေ အပေးခံရခြင်းတို့ ဖြစ်၏၊ ရဟန်းများအဖို့ ရှိခိုးခြင်း, မြတ်နိုးခြင်း, တုပ်ကွခြင်း, ရိုသေခြင်း, ခရီးဦးကြိုဆိုခြင်း, နေရာပေးခြင်း စသည်ဖြင့် အရာရာတွင် ဦးစားပေးခြင်းကို... "သက္ကာရ"ဟု ဆိုရ၏။

ထိုမှတစ်ပါး နာမည်ကျော်ကြားခြင်း, ဂုဏ်သတင်းပျံ့ခြင်း, လူသိများခြင်း, တန်ခိုးထွားခြင်း, အရှိန်အဝါ ပျံ့နှံ့ခြင်း စသည်တို့ကိုကား ... "သိလောက"ဟု ခေါ်ရသည်။

ဤသုံးမျိုးလုံးကပင် ဒုက္ခပေးတတ်၏၊ သတိရှိဖို့ ရှင်တော်ဗုဒ္ဓက ဟောပြထားတော်မူ၏၊ ထို့ကြောင့် ဤအချက်တို့ကို ဆက်လက်၍ ဆရာတော်က ဩဝါဒပေးတော်မူပြန်သည်။

## မျှတရုံကလေးပဲ ကောင်းတယ်

"ပစ္စည်းဟာ လုံးလုံးမရှိပြန်တော့လဲ မကောင်းဘူး၊ စားသာသောက်သာ ဝတ်သာဆင်သာ နေသာထိုင်သာ သုံးသာစွဲသာလောက်တော့လည်း ရှိမှ၊ မျှတရုံလောက်တော့ ရှိမှလို့ ဆိုလိုတယ်၊ အဲဒီလောက် မရှိရင်လဲ စာရိတ္တ ယိမ်းယိုင်စေနိုင်တယ်၊ ပျက်ပြားစေနိုင်တယ်၊ ထိန်းသိမ်းရမယ့် လူ့ကျင့်ဝတ်တွေကို ချိုးဖောက်ချင်တတ်ကြတယ်။

အဲ-ဒီထက် များလာရင်လဲ သိပ်ပိုလျှံလွန်းလာရင်လဲ အဲဒီ ပစ္စည်းတွေက (ခုနတုန်းက ပြောသလို လာဘ်လာဘတွေကပေါ့လေ) လူကို အန္တရာယ် ပြန်ပေးတယ်၊ မြွေဟောက်လို ပြန်ပေါက်တတ်တယ်၊ သူရဲ့ ပြန်ပေါက်ခြင်းကို ခံရတတ်တယ်၊ ငရဲမီးလို ပူလောင်စေတတ်တယ်၊ ရန်သူလို အမုန်းပွားစေတတ်တယ်၊ အခု ပွားနေကြရပြီပေါ့။

ဒါကြောင့် ဘုရားက "နာကျင်ခံခက် ခါးစပ်တဲ့ အကျိုးတွေကို ဖြစ်စေတတ်တယ်"လို့ ဟောတော်မူတာပဲ၊ ဒါတွေကို မြင်ထားလို့ တို့ဘုရားကိုယ်တော်မြတ်က ရဟန်းတွေ ပစ္စည်းများများ ပိုင်တာမကြိုက်ဘူး၊ မျှတရုံကလေး ခွင့်ပြုထားတယ်၊ "သပိတ်တစ်လုံး သင်္ကန်း သုံးထည်"တဲ့။

ဒါပဲ ကျေကျေနပ်နပ် ခွင့်ပြုထားတယ်၊ ပစ္စည်းများများ မပိုင်စေရဘူး၊ သွားလေရာ လာလေရာ ဒါပဲ၊ ဒီတစ်လွယ်တစ်ပိုးပဲ ပိုင်စိုးခွင့်ပေးတယ်၊ ပေါ့ပေါ့ပါးပါးပဲ၊ ငှက်များလိုပေါ့၊ ငှက်များဟာ ...

သွားချင်တဲ့ နေရာ သွား, ပျံချင်တဲ့ နေရာ ပျံ, ကျချင်တဲ့နေရာ ကျ။ ထပျံချင်ပြီဆိုရင်လဲ "ဖြန်းခနဲ" အတောင်နှစ်ဖက်ခတ်ပြီး ပျံသွားရုံပဲ၊ ပစ္စည်းအပိုမပါဘူး၊ အတောင်သာလျှင် ဝန်ထုပ်ဝန်ပိုး ရှိသလိုတဲ့၊ စာက ဆိုတာက...[၁] "**ယေန ယေနေဝ ဒွေတိ, သမတ္တဘာရောဝ ဒွေတိ**"တဲ့၊ ရဟန်းများလဲ သပိတ်တစ်လုံး သင်္ကန်း သုံးထည်မျှသာပဲ ဝန်ထုပ်ဝန်ပိုး ရှိပစေတဲ့၊ များလာ ရင် အန္တရာယ်ပေးမှာ စိုးလို့။

## ရဟန္တာကိုပင် အန္တရာယ်ပေး

ရှေးအစဉ်အလာက... "သူတော်ကောင်းတွေ တော,ထွက်တော့မယ်ဆိုရင် ရှိသမျှ ကုဋေကုဋာ ပစ္စည်းတို့ကို အကုန် စွန့်လှူပစ်လေ့ ရှိ၏၊ ပေးကမ်းဝေငှပစ်လေ့ရှိ၏၊ ဤပစ္စည်း လာဘ်လာဘတို့သည် အနှောင်အဖွဲ့ တစ်မျိုးပင် မဟုတ်ပါလော။

တောမှီ၍ ယောဂီအလုပ်ကို ကြိုးစားသူတို့အတွက် ဤပစ္စည်းတို့က အနှောင့်အယှက် ပေးတတ်သည်မှာ အမှန်ပင် ဖြစ်၏၊ တရားသိမြင်ရေးအတွက် အဟန့်အတားတစ်ချက် ဖြစ်တော့သည်။

ထို့ကြောင့်ပင် မြတ်စွာဘုရားက "အနုတ္တရဿ-အတုမရှိ မွန်မြတ်သော၊ ယောဂက္ခေမဿ-ယောဂလေးပါး၏ ကုန်ရာ နိဗ္ဗာန်ကို၊ အဓိဂမာယ-ရခြင်း၏၊ အန္တရာယိကော-အန္တရာယ်ကို ပြုတတ်၏"ဟူ၍ ဟောတော်မူခြင်း ဖြစ်ပေသည်။

ထို့ကြောင့် ပစ္စည်း ပစ္စယ များလေ အန္တရာယ်များလေပင် ဖြစ်၏၊ ဤသဘောကို ဆရာတော်က ဆက်လက်၍ ဩဝါဒ ပေးတော်မူနေပြန်သည်။

[၂] "ဟုတ်တယ်၊ ဒီပစ္စည်း လာဘ်လာဘတွေဟာ များလေ မကောင်းလေပဲ၊ များလာရင် ပုထုဇဉ်သား မပြောထားနှင့် ရဟန္တာကိုတောင် ဒုက္ခပေးတတ်တယ်လို့ ဘုရားက ဟောဖူးတယ်၊ ဒါကို အရှင်အာနန္ဒာက ဘဝင်မကျလို့ "ရဟန္တာများလည်း လာဘသက္ကာရသိလောကတွေကို မက်မောကြပါသေးသလားဘုရား၊ ဒီလာဘသက္ကာရသိလောကတွေက ရဟန္တာများရဲ့ အရဟတ္တဖိုလ်ကိုတောင် ဖျက်ဆီးနိုင်ပါသလားဘုရားလို့ ပြန်လျှောက်ဖူးတယ်။

ဒီတော့ ဘုရားကိုယ်တော်မြတ်ကြီးက... "ရဟန္တာများရဲ့ အရဟတ္တဖိုလ်ကိုတော့ မဖျက်ဆီးနိုင်ဘူးပေါ့၊ ဒါပေမယ့် ဒီပစ္စည်း လာဘ်လာဘတွေကို ဒကာ ဒကာမတွေက ယူလာပြီး ရဟန္တာအား လှူဒါန်းကြ ပူဇော်ကြ လုပ်နေတော့ ရဟန္တာပုဂ္ဂိုလ်က အနုမောဒနာပြုနေရ, တရားဟောနေရ, မေးတဲ့ ပြဿနာတွေ ဖြေနေရတဲ့အတွက် ဖလသမာပတ်ချမ်းသာနှင့် နေရမည့်အချိန်တွေ ကုန်ရတယ်၊ ... ဒါတွေဟာ အန္တရာယ်ပေးတယ်လို့ ခေါ်ရတာပေါ့"ဟူ၍ ဖြေကြားတော်မူတယ်။

ပုထုဇဉ်သားတော့ မပြောထားနှင့်၊ တရားရဖို့ကိုလဲ အနှောင့်အယှက်ပေးတယ်၊ တရားမရခင် မေတ္တာစာတ်ကိုလဲ ခေါင်းပါးစေတယ်၊ စိတ်ဝမ်းလဲ ကွဲပြားစေတယ်၊ စောစောက ပြောခဲ့တဲ့ ညီအစ်ကို မောင်နှမတွေဟာ လက်ငင်းသက်သေတွေပေါ့။

တကတဲ မိဘတွေ လက်ထဲမှာ ဒီပစ္စည်းတွေ တစ်စုတရုံးတည်း ရှိနေတုန်းက ဘာမျှ မဖြစ်သေးဘူး၊ ကိုယ့်ဝေစုနှင့်ကိုယ်လဲ သတ်မှတ်လိုက်ကရော ဥပါဒါန်စွဲတွေနှင့် သူနည်းတယ်, ငါနည်းတယ်နှင့် ဖြစ်ကုန်ရော။

---

၁။ ဒီ-၁၊ ပါ- သုဘာသုတ် - ၁၉၃။

၂။ သံ-ပါ-၁၊ နိဒါန-၄၃၄၊ ဋ္ဌ-၁၉၄။

## ကြက်မိသားအုပ် ပုံပမာအလား

ဤအမွေပစ္စည်းများနှင့်ပတ်သက်၍ ရှေးလူကြီးသူမတို့က ဆိုကြ၏၊ ယခုလို အဝေမတည့်ကြဘူး ဆိုရင် ညီအစ်ကို မောင်နှမတို့က သံယောဇဉ်တွေ ပြတ်ကြရ၏၊ မေတ္တာတွေ ခန်းကြရ၏၊ ချစ်စေးတွေ ပြေကြရတော့သည်၊ ပစ္စည်းပစ္စယတို့က ညီအစ်ကို မောင်နှမတို့၏ အဖွဲ့အစည်းတွေကို ချေမွပစ်သလို ချိုးဖဲ့ ဖျက်ဆီးသလို မွှေနှောက်ပစ်သလို ဖြစ်စေသောကြောင့် "အမွေ"ဟု ဆိုတတ်ကြသည်။

တစ်ဖန် အမွေသည် စုန်ရေနှင့်တူ၏ဟု ဆိုကြပြန်သည်၊ အောက်အကြေသို့ စုန်ဆင်းသော ရေသည် ပြန်၍ ဆန်တက်ရိုး မရှိသကဲ့သို့ မိဘတို့က ချကျွေးသော ဝေငှပေးသော အမွေပစ္စည်းသည်လည်း သားသမီးတို့ထံသာလျှင် စုန်ဆင်းသွားကြတော့၏။

သားသမီးတို့က တစ်ဖန် ပြန်လည်၍ လုပ်ကျွေးသောအားဖြင့် ဆန်တက်သောကိစ္စ အလွန်နည်းပါးလှ၏၊ ထို့ကြောင့် မိဘနှစ်ပါးက သားသမီးတွေ တစ်ပုံကြီးကို ဝအောင် ကျွေးနိုင်သော်လည်း သားသမီးတွေ တစ်ပြုံကြီးက မိဘနှစ်ပါး၏ ပါးစပ် နှစ်ပေါက်ကို ဝအောင် ပြန်လည် လုပ်ကျွေးဖို့ ခဲယဉ်းတတ်ကြသည်၊ ဤသဘောကို ဆရာတော်က...

"မင်းတို့ မြင်ဖူးကြမှာပေါ့၊ ကြက်မကြီး မိသားအုပ်ကိုလေ၊ ကြက်မကြီးက ကြက်ပေါက်ကလေးတွေ တစ်ပြုံကြီးကို ရှေ့က ခေါင်းဆောင်ပြီး ခေါ်တယ်၊ "ဂေါက်ဂေါက် ဂေါက်ဂေါက်"နှင့် အသံပေးပြီး အစာရေစာ ရှိမယ်ထင်တဲ့ နေရာကို ဦးဆောင်ခေါ်သွားတယ်။

ပြီးတော့ ခြေထောက်နှင့်ယက်ပြီး ရှာဖွေ ပေးတယ်၊ အစာလေးတွေ ပေါ်လာဘော့ ကလေးတွေက ဝိုင်းအုံစားကြတယ်၊ သူစားရတယ်လို့ကို မရှိဘူး၊ သားသမီးလေးတွေကို ဦးစားပေး ကျွေးရှာတယ်၊ သိန်းစွန် ကျီးကန်းတို့ရဲ့ ဘေးရန်ကိုလည်း ကာကွယ်ရသေးတယ်၊ အဲလိုနှင့် အရွယ်ရောက်သည့်တိုင်အောင် မိဘတွေမှာ စောင့်ရှောက်ရရှာတာ။

အဲ-ကြက်ကလေးတွေ အရွယ်ရောက်လာတော့ မိဘကို ပြန်ပြီး ရှာဖွေ ကျွေးကြသေးရဲ့လား၊ မကျွေးကြဘူး၊ ကိုယ့်ဟာ ကိုယ်သာ ရှာဖွေစားသောက်နေတော့တာပဲ၊ မကျွေးရုံတင် မကဘူး၊ ကြက်မကြီး ယက်ပေးတဲ့ အစာကိုပဲ ဝိုင်းအုံလုစားကြရာက သူ့ဝေစု နည်းတယ်ထင်ရင် အချင်းချင်း ခွပ်ကြသေးတာ၊ ကြက်ကလေးတွေနှင့် ဘယ်လောက် တူကြသလဲဆို။

အဲလိုပဲ, သာယာဖွယ် မက်မောဖွယ် လာဘ်လာဘတွေကို မြင်ကြလို့ လောဘတဏှာနှင့် ဥပါဒါန်နှင့် စွဲပြီး တွယ်တာကြပြီဆိုရင် (လောဘော အတ္ထံ န ဇာနာတိ) ကြောင်းကျိုး အပြစ်ကို ဘာမျှ မသိကြတော့ဘူး၊ ကြက်ကလေးတွေဟာ ကိုယ့်မွေးချင်းချင်း မညှာတာတော့သလို လူတွေကလဲ ဒီအတိုင်း ဖြစ်ကုန်ကြတော့တာပဲ။

ဒီလောဘတစ်မျိုးသာ မကသေးဘူး၊ သက္ကာရတို့, သိလောကတို့လဲ အတူတူပဲ၊ ဒီ"လာဘ်ပူဇော် သက္ကာရ အကျော်အစော"ဆိုတဲ့ သုံးမျိုးဟာ လူတစ်ယောက်ကို လွှမ်းမိုးမိပြီဆိုရင် အဲဒီသူဟာ မလွယ်တော့ဘူး၊ နူနာစွဲသလို အကုရခက်ပြီ"။

ဤသို့လျှင် ဥပမာတွေ ပြ၍ လောကသက်သေတွေ တင်ပြီးလျှင် မြင်သာအောင် ထင်လာအောင် ရှင်းပြ ဩဝါဒပေးတော်မူပါသည်။

## ရိုးတွင်းချဉ်ဆီ ရောက်အောင်တည်

ဟုတ်ပါသည်၊ ဤလာဘသက္ကာရသိလောက ရောဂါသည် စွဲမိပြီဆိုလျှင် အကုရခက်သော အနာဆိုး တစ်မျိုး ဖြစ်ပါသည်၊ အဘယ့်ကြောင့် အကုရခက်သနည်း၊ အတွင်းခိုက်အောင် ရောဂါပိုး စိုက်ဝင်နေတတ်သောကြောင့် ဖြစ်ပါသည်၊ ထိုသို့ စိုက်ဝင်ပုံကို မြတ်စွာဘုရားက ...* "**လာဘသက္ကာရ**

* သံ-ပါ၊ ၁၊ နိဒါန-၄၃၃, ၄၃၅

**သီလောကော ဘိက္ခဝေ ဆဝိ ဆိန္ဒတိ, ဆဝိ ဆေတွာ စမ္မံ ဆိန္ဒတိ, စမ္မံ ဆေတွာ နှာရုံ ဆိန္ဒတိ, နှာရုံ ဆေတွာ အဋ္ဌိံ ဆိန္ဒတိ, အဋ္ဌိံ ဆေတွာ အဋ္ဌိမိဉ္ဇံ အာဟစ္စ တိဋ္ဌတိ**"ဟူ၍ ဟောတော်မူထားပါသည်။

အဓိပ္ပာယ်မှာ လာဘ်လာဘ ပူဇော်သက္ကာရ အကျော်အစောသည် အရေပါးကို ထိုးဖောက်၏၊ အရေပါးကို ထိုးဖောက်ပြီးနောက် အရေထူကို တစ်ဆင့်ထိုးဖောက်ပြန်၏၊ အရေထူကို ထိုးဖောက်ပြီးနောက် အသားထဲကို ထိုးဖောက်ပြန်၏၊ အသားထဲကို ဖြတ်သန်းပြီးနောက် အကြောကို ထိုးဖောက်ပြန်၏၊ အကြောကို ဖြတ်သန်းပြီးနောက် အရိုးကို ထိုးဖောက်ပြန်၏၊ အရိုးကို ထိုးဖောက်ပြီးနောက် ရိုးတွင်းချဉ်ဆီကို ခိုက်အောင် သွား၍ ရပ်တည်၏ဟု ဆိုလိုပါသည်။

ထို့ကြောင့်ပင် အကုရခက်သော ရောဂါမျိုးဟု ဆိုခဲ့၏။

## သူကိန်းအောင်းရာကို ပြန်၍ တူးဖြို

"အရှင်ဒေဝဒတ်ဟာ လာဘသက္ကာရသိလောက ကြောင့်ပေါ့, ဘုရားလုပ်ချင်တာ၊ ဒါကြောင့် သံဃာတွေ သင်းခွဲတယ်, ဘုရားကို သေကြောင်း ကြံ တယ်၊ ဒီအတွက်ပဲ ကိုယ်ကိုယ်တိုင် နစ်မွန်းရတယ်၊ ကိုယ့်ကိုယ်ကို တူးဖြိုသတ်ဖြတ်တာနှင့် အဘူတူပဲ။

ဒါကြောင့် မြတ်စွာဘုရားက ဟောတာ ...

"**အတ္တဝဓာယ, ဘိက္ခဝေ ဒေဝဒတ္တဿ လာဘသက္ကာရသိလောကော ဥဒပါဒိ, ပရာဘဝါယ**"

"ဒေဝဒတ်ရဲ့ လာဘသက္ကာရသိလောကဟာတဲ့, ကိုယ့်ကိုယ်ကို သတ်ဖြတ်ဖျက်ဆီးဖို့ ဆုံးရှုံးနစ်နာ ပျက်ပြားဖို့ ဖြစ်လာတာ"တဲ့။

ဥပမာပြောရရင် ငှက်ပျောပင်ဟာ သေဖို့ အဖူးထွက် (အဖီးထွက်)သလို, ဝါးပင်ဟာ သေဖို့ အသီး သီးသလို, ကျူပင်ဟာ သေဖို့ အသီး သီးသလို, အဿတိုရ်မြင်းမဟာ သေဖို့အတွက် ကိုယ်ဝန်ယူသလိုပဲတဲ့၊ ဒေဝဒတ်ဟာလည်း သေဖို့အတွက်, ဆုံးရှုံးနစ်နာ ပျက်ပြားဖို့အတွက် လာဘသက္ကာရသိလောက လွှမ်းမိုးလာခြင်းပဲလို့ ဟောပြတော်မူတယ်၊ လာဘသက္ကာရသိလောကဟာ ကိုယ်ကိန်းအောင်းရာ သတ္တဝါကို ပြန်ပြီး တူးဖြိုတတ်တယ်၊ အဆိပ်လိုပဲ။

ဂိဇ္ဈကုဋ်တောင်ခြေမှာ စကြံကြွနေတဲ့ မြတ်စွာဘုရားကို တောင်ထိပ်ပေါ်ကနေ အရှင်ဒေဝဒတ် က ကျောက်တုံးနှင့် လှိမ့်ချနေတုန်းက ဟောတာ ဒီတရားကို ...

* **ဖလံ ဝေ ကဒလိံ ဟန္တိ,**
**ဖလံ ဝေဠုံ ဖလံ နဠံ၊**
**သက္ကာရော ကာပုရိသံ ဟန္တိ,**
**ဂဗ္ဘော အဿတရိံ ယထာ။**

(ဘိက္ခဝေ- ရဟန်းတို့၊) ဖလံ- ငှက်ပျောဖူး ငှက်ပျောဖီးသည်၊ ဝေ-စင်စစ်၊ ကဒလိံ-ကိုယ်၏ မိခင်, ငှက်ပျောပင်ကို၊ ဟန္တိ ယထာ-အသေသတ် သကဲ့သို့၊ ဖလံ-ဝါးသီးသည်၊ ဝေဠုံ-ကိုယ်၏မိခင်, ဝါးအပင်ကို၊ ဟန္တိယထာ - အသေသတ်သကဲ့သို့၊ ဖလံ-ကျူသီးသည်၊ နဠံ-ကိုယ်၏မိခင်, ကျူအပင်ကို၊ ဟန္တိယထာ-အသေသတ်သကဲ့သို့၊ ဂဗ္ဘော-မြင်းမျိုး အမွန်, ကိုယ်ဝန်သားငယ်သည်၊ အဿတရိံ-ကိုယ် ကိန်းအောင်းရာ, ဝမ်းခေါင်းအရှင်, အဿတိုရ် မွေးမိခင်ကို၊ ဟန္တိယထာ-အသေသတ်သကဲ့သို့၊ တထာ-ထို့အတူ၊ သက္ကာရော-လာဘ်လာဘ ပူဇော် သက္ကာရသည်၊ ကာပုရိသံ-ကိုယ်ကိန်းအောင်းရာ, ယုတ်မာသော ယောကျ်ားကို၊ ဟန္တိ-ဘဝနာဂတ်, အနေကြပ်အောင်, အသေသတ်တတ်လေသတည်း"

* သံ - ပါ ၊ ၁ နိဒါန - ၄၃၆။

## ဆရာတော်နှစ်ပါး၏ စကားနှစ်ရပ်

ဆရာတော်သည် လာဘသက္ကာရသိလောကနှင့် ပတ်သက်လာလျှင် ပုံပြင်အမျိုးမျိုး ပြ၍ သာဓကအမျိုးမျိုးတပ်၍ ဆင်ခြင်နိုင်အောင် ဟောပြလေ့ရှိပါသည်၊ သာသနာတွင် ... ပျက်ပြားခြင်း၏ အကြောင်းရင်းမှာ ဤလာဘသက္ကာရသိလောကမှ အစပြုတတ်သောကြောင့် ဖြစ်၏၊ မြတ်စွာဘုရားကလည်း နိဒါနဝဂ္ဂသံယုတ်ပါဠိတော်မှာ ဤလာဘသက္ကာရသိလောက၏ အပြစ်တွေကို များစွာ ဟောပြထားတော်မူပါသည်၊ ထို့ကြောင့်ပင် ဆရာတော်က ဤလာဘသက္ကာရသိလောက အပြစ်ကြီးကြောင်းကို ဆက်လက် မိန့်ဆိုတော်မူပြန်ပါသည်။

"ဟို တစ်ချိန်တုန်းက လယ်တီဆရာတော်ဘုရားကြီးဟာ အဘိဓမ္မာတွေ ပြန့်ပွားစေချင်လွန်းလို့ ပရမတ္ထသံခိပ်တွေ ရေး၊ ပြီးတော့ မြန်မာပြည် ထက်အောက်အနှံ့ ခရီးတွေဖြန့်၊ အဘိဓမ္မာတရားတွေဟော၊ အဘိဓမ္မာအသင်းတွေဖွဲ့ လုပ်ခဲ့ဖူးတယ်။

ဒီလို စီမံကိန်းကြီးနှင့် လုပ်မယ်ဆိုပြီး ခရီးထွက်ခါနီးမှာ မုံရွာကနေ မန္တလေးကိုလာ, မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးထံ ဝင်ပြီး နှုတ်ဆက်, အကျိုးအကြောင်းပြော၊ သူတို့ချင်းကလဲ အလွန်ရင်းနှီး, တစ်ပါးအပေါ် တစ်ပါး လေးစားကြတယ်၊ နှုတ်ဆက်ပြီး နေရာမှ အထ မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးက "ကြံ့ကြီးတော့ ထွက်သွားပေ့ါဟေ့, နောက်က ကြံ့ကလေးတွေ သေကြတော့မှာပဲ" အဲလို မိန့်လိုက်သတဲ့၊ ဒီတော့ ချက်ချင်းပဲ လယ်တီဆရာတော်ဘုရားကြီးက...

"စစ်တိုက်တယ်ဆိုတာ ကိုယ့်ဘက်ကလဲ ကျဦးမှာပဲ ဆရာတော်"လို့ ပြန်လည်ခွန်းတုံ့လျှောက်ထားသတဲ့၊

ပြီးတော့ မဆုတ်မနစ် ခရီးကို ဆက်လက် ကြွသွားတာပဲတဲ့၊ ဒီပညာရှိပုဂ္ဂိုလ်ကျော် ဆရာတော်ဘုရားကြီး နှစ်ပါးတို့ရဲ့ မိန့်ဆိုချက် နှစ်ခုဟာ သာမန်ပုဂ္ဂိုလ်တို့ အနေနှင့်တော့ အဆက်အစပ် မရှိသလို ထင်ကြရမှာပဲ၊ ဒါပေမယ့် ရှိတယ်။

အဓိပ္ပာယ် အသီးသီးနှင့် ကျယ်ဝန်း နက်ရှိုင်းစွာ ရှိကြပါတယ်။

## စစ်တိုက်တယ်ဆို ကိုယ့်ဘက်ကလဲ ကျမှာပဲ

ဆိုလိုတာက ကြံ့သတ္တဝါဆိုတာ... ခွန်အားကောင်းလှပါတယ်၊ ကျွဲလောက် ရှိတယ်၊ ကျွဲလို အကောင်ပဲ၊ ဒါပေမယ့် ကျွဲလို ဦးချိုနှစ်ချောင်း မဟုတ်ဘူး၊ သူက ဦးချိုတစ်ချောင်းထဲရယ်၊ ဦးချိုကို အားကိုးတယ်၊ အဲဒီ ကြံ့ကြီးတွေဟာ တောနက်မြိုင်ရှိုတွေထဲ လှည့်လည်တဲ့အခါမှာ ရှေ့မှာ တွေ့ရတဲ့ ခြုံနွယ်ပိတ်ပေါင်း တုံး တိုင် သစ် ဝါးတို့ကို ရှောင်ကွင်းပြီး သွားလေ့ မရှိဘူးတဲ့၊ ဦးချိုနှင့် ကော်ခပ် တိုးဝှေ့၍ နောက်သို့ ကော်ပက်ပြီး သွားလေ့ရှိသတဲ့။

အဲဒီအခါမှာ နောက်က ပါလာတဲ့ ကြံ့ကလေးတွေ အပေါ် တုံး တိုင် ကျောက်ခဲတွေ ကျပြီး သေရတတ်သတဲ့၊ ကြံ့ကြီးဟာ နောက်က ပါလာတဲ့ သားသမီးကလေးတွေ ကြံ့ကလေးတွေ ဘယ်လိုပဲ ဖြစ်နေနေ သူလှည့်မကြည့်တတ်ဘူး၊ သူလိုတဲ့ ခရီးကို အောင်အောင်မြင်မြင် ဒိုးယိုပေါက် သွားဖို့ပဲ အဓိကထားသတဲ့။

အဲဒီနည်း ဥပမာပဲ၊ အခုလည်း အလိုနည်းပါးတော်မူခြင်း အပ္ပိစ္ဆတာဂုဏ်, ထက္ကြွလှ့လ ကြီးမားတော်မူခြင်း ဝီရိယ, ဖြူလွှသော သီလအကျင့်, ရဲရင့်တည်ငြိမ်သော သမာဓိခွန်အားတို့ဖြင့် ပြည့်စုံတဲ့ အပြင် ပညာတည်းဟူသောဦးချို ရှိတော်မူသော လယ်တီဆရာတော်ဘုရားကြီးသည်လည်း ကြံ့ကြီးပမာ ခရီးထွက်သွားပြီ။။

မကြာခင် ဝိုင်းအုံ လှူတန်းကြမည့် လာဘ်လာဘ, ဒါယကာ ဒါယိကာမတို့ရဲ့ ပူဇော်သကာ, လုပ်ငန်းအောင်မြင်လာတဲ့အခါ ရရှိမည့် အကျော်အစော၊ ဒီအားလုံးတွေဟာ ရှေ့မှာ တွေ့ရမည့် ခြုံနွယ်ပိတ်ပေါင်း တုံး တိုင် ကျောက်ခဲတွေပဲ။

ဆရာတော်ဘုရားကြီးကတော့ ဒါတွေကို မမှုဘဲ, ငဲ့ကွက်မှု မထားပဲ နောက်သို့ ကော်ပက်ရမ်းကာ ဖယ်ရှားသွားမှာပဲ၊ ဒီအခါ နောက်က ပါလာတဲ့

ကြံ့သူငယ်ကလေးများပမာ တပည့်လေးတွေ အပေါ် ကျမယ်, ထိမယ်၊ ပစ္စည်းလာဘ်လာဘတုံး ပိ၍ သေကြမယ်လို့ မဟာဝိသုဒ္ဓါရုံဆရာတော် ဘုရားကြီးက ရည်ညွှန်းမိန့်တော်မူလိုက်တာ။

ဒါကို လယ်တီ ဆရာတော်ဘုရားကြီးကလဲ လက်ခံနဲ ချက်ချင်း သိတော်မူလိုက်ပါတယ်။

ဒါကြောင့်လဲ "စစ်တိုက်တယ်ဆိုတာ ကိုယ့်ဘက်ကလဲ အနည်း အပါး ကျဦးမှာပဲ ဆရာတော်"လို့ ချက်ချင်း ပြန်လည်ခွန်းတုံ့လိုက်တာပဲ။

## ကြံ့သူငယ်လေးများ ကျဆုံးနေရစ်ခဲ့

လယ်တီဆရာတော်ဘုရားကြီးဟာ ဆောင်ရွက်မည့်လုပ်ငန်းကို ဆုတ်နစ်ခြင်း မရှိ, တိတိကျကျ ဆက်လက် ဆောင်ရွက်တာပဲ၊ အဘိဓမ္မာပြန့်ပွားရေးအတွက် အလေးထားတော်မူတယ်၊ စစ်တိုက်သလိုကို အလေးအစား သဘောထားကာ အောင်ကို အောင်မြင်ရမည်လို့ "အောင်စိတ်" မွေးထားတာ၊ ဟုတ်တယ်, ဒီလိုပဲ စစ်တိုက်တဲ့နေရာမှာ ဘာပဲဖြစ်ဖြစ် အောင်မြင်ဖို့ တစ်ခုတည်း ကြည့်ရတာပဲ၊ မအောင်မြင်လို့ ရှုံးရင် "ကျွန်ခံစတမ်း"မဟုတ်လား၊ ဒါ့ကြောင့် စစ်ဦးစီးချုပ်လုပ်တဲ့သူဟာ မိမိတပ်များ ထိခိုက်ရှနာ၍ အနည်းငယ် သေဆုံးမှုဖြစ်ရတဲ့အတွက် ဆုတ်နစ်နေလို့ မရဘူး၊ ရပ်တန့်နေလို့ မဖြစ်ဘူး၊ စစ်အောင်နိုင်ရေး တစ်ခုတည်းကိုသာ ကြည့်ပြီး အလုပ်လုပ်ရတာပဲ။

လယ်တီ ဆရာတော်ဘုရားကြီးလဲ ဒီနည်းအတိုင်းပါပဲ, မိမိရည်မှန်းထားတဲ့ လုပ်ငန်းစဉ်တွေ အောင်မြင်ဖို့ရာ ရှေ့သို့သာ တိုး၍ ခရီးစဉ်အတိုင်း ချီတက်လာတဲ့အခါ လမ်းမှာ (မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီး လှမ်း၍ မြော်မြင်ထားတဲ့အတိုင်း) လယ်တီပဏ္ဍိတ, လယ်တီကောဝိဒ, လယ်တီဝါယာမ, လယ်တီဝဏ္ဏိတ စတဲ့ ကြံ့သူငယ်လေးများ ကျဆုံးခဲ့ရပါတော့တယ်၊ လယ်တီဆရာတော်ဘုရားကြီးရဲ့ အဓိကရည်မှန်းချက်များလဲ (စစ်အောင်သလို) အောင်မြင်လာခဲ့ပါသတဲ့၊ အဲလိုနှင့် ခရီးဆုံးလို့ လယ်တီဆရာတော်ဘုရားကြီး ပြန်လှည့်လာတဲ့အခါ မဟာဝိသုဒ္ဓါရုံ ဆရာတော်ဘုရားကြီးက (သတင်းတွေ အကုန်ကြားထားတဲ့အတွက်) ဂါထာလေးတစ်ပုဒ်ကို ရေးပြီး အပို့ခိုင်းသတဲ့၊ အဲဒီ ဂါထာလေးကတော့...

**"ယထာပိ ဗလဝါ စင်္ဂေါ,**

**ဥက္ခိပျ ပုရတော ဋ္ဌိတေ၊**

**ပစ္ဆာဂေ ပုတ္တေ မာရေတိ,**

**တထာ ထေရောပိ ထာမဝါ**"တဲ့။

"ဗလဝါ-ခွန်အားဗလ, ပြည့်ဝကြီးမားသော၊ ခင်္ဂေါ-ကြံ့သတ္တဝါကြီးသည်၊ ပုရတော-ရှေ့၌၊ ဋ္ဌိတေ-တည်နေကုန်သော ခြုံနွယ်ပိတ်ပေါင်း သစ် ဝါး တုံး တိုင်တို့ကို၊ ဥက္ခိပျ-ကြွချီပင့်မြှောက်, မိမိ နောက်သို့ ပစ်ပေါက်ပြီး၍၊ ပစ္ဆာဂေ-နောက်က မကွာ, လိုက်လာကြကုန်သော၊ ပုတ္တေ-သားသမီး တို့ကို၊ မာရေတိ ယထာ-သေစေသကဲ့သို့၊ တထာ-ထို့အတူ၊ ထာမဝါ-သီလ သမာ, ပညာခွန်အား, ကြီးမားသန်စွမ်းသော၊ ထေရောပိ-ကမ္မာမဆုံ, ဂုဏ်ရောင်နှံ့၍, သင်းပျံ့ထင်ပေါ်, မထေရ်ကျော်သည်လည်း၊ ပစ္ဆာဂေ-နောက်ကမကွာ, လိုက်လာကြကုန်သော၊ ပုတ္တေ-တပည့်သားငယ်တို့ကို၊ မာရေတိ-သေစေဘိ၏"တဲ့။

## ကျောင်းပေါက်ဝဆီ လာနေပြီ သတိထား

ဆရာတော်ဘုရားကြီးနှစ်ပါးရဲ့အမိန့်အဆိုနှစ်ရပ်ဟာ အဲသလိုပဲ ကိုယ့်နည်းနှင့်ကိုယ် မှန်ကြတယ်လို့ မြင်တော်မူကြတယ်၊ မဟာဝိသုဒ္ဓါရုံ ဆရာတော်ဘုရားကြီး အနေနဲ့က လုပ်ငန်းအောင်မြင်မှုရမည်ဖြစ်သော်လဲ လာဘသက္ကာရသိလောကများကြောင့် တပည့်လေးတွေ ပျက်ပြားကုန်လိမ့်မည်လို့ မြင်တော်မူတယ်။

လယ်တီဆရာတော်ဘုရားကြီး အနေနဲ့ကတော့ အဓိကလုပ်ငန်းကြီးအောင်မြင်မည်ဆိုလျှင် ကိုယ့်ဘက်ကလဲ အတော်အတန် ကျချင် ကျပစေဆိုတဲ့

သဘောပါပဲ၊ ဘာပဲဖြစ်ဖြစ် ကိုယ့်တပ်ဘက်ကလဲ လုံး အကျအရှုံးမရှိဘူး, အောင်မြင်နိုင်မယ်ဆိုရင် တော့ ပို၍ အကောင်းဆုံးပဲပေါ့။

ဒါကြောင့် ဘုန်းကြီးက ပြောပြောနေရတာ၊ ဒီ လာဘ သက္ကာရ သိလောကဘုန်းတွေ ပိရင် စိစိ ညက်ညက် ကြေကြေကုန်တတ်လွန်းလို့ "ရှောင်ကြ ဟဲ့, ရှားကြဟဲ့"နှင့် သတိ ပေးပေးနေရတာ။

တစ်နေ့တုန်းက ဒကာတစ်ဦးက သူ့ဦးပဉ္စင်း စာမေးပွဲအောင်တာ ချီးကျူးပွဲ ပူဇော်ပွဲ လုပ်မယ်လို့ တဲ့၊ ဘုန်းကြီးကို လာပင့်တယ်၊ မလိုက်ပါဘူးလို့ ပြောလိုက်ရတယ်၊ စာချဘုန်းကြီးတွေကို ပင့်သွား ပေါ့လို့ ပြောတော့ ပင့်တော့ ပင့်နေဟန်တူရဲ့၊ စာချ ဘုန်းကြီးတွေလဲ လိုက်မသွားကြဘူး။

အားလုံး မင်းတို့တွေ သတိရှိကြ၊ ဒီ လာဘ သက္ကာရသိလောကတွေဟာ သာသနာကို အကျိုး မပြုဘူး၊ ပျက်ပြားစေရုံသာ အကျိုး ဖြစ်စေတယ်၊ ဒါကြောင့်လဲ ဘုရားကိုယ်တော်မြတ်က အပြစ်တွေ များစွာ ဟောပြထားတော်မူတာ။...

**"မာ ဘိက္ခဝေ လာဘသက္ကာရသိလောကံ ပိဟယိတ္ထ=ရဟန်းတို့...လာဘသက္ကာရသိလောကကို မမက်မောကြနှင့်"** တဲ့။

"ဟော-အခု ပြောရင်းဆိုရင်းနှင့်ကို ဒီလာဘ သက္ကာရသိလောကတွေဟာ ဘုန်းကြီးတို့ ကျောင်း ပေါက်ဝကို ရောက်လာနေပြီ၊ သတိထားကြ၊ အဝင် မခံကြနှင့်၊ ဝင်ခွင့်ပြုပြီး လက်ခံတဲ့နေ့ဟာ ပျက်ပြား ဖို့ စခြင်းနေ့ပဲလို့ အောက်မေ့ကြ။

ဤသို့လျှင် မြော်မြော်မြင်မြင်နှင့် ကျေးဇူးရှင် ဆရာတော်က သာသနာတော်အတွက်၊ တပည့်တို့ ၏ နောင်ရေးအတွက် ရင်လေးသည့်ပမာ စိတ်မချ နိုင်သလို ကြောင့်ကြောင့်ကြကြ တဖွဖွ ရှည်လျား သော ဩဝါဒကြီးကို မညည်းမညူ ပေးတော်မူပြီးမှ ထိုနေ့အတွက် တစ်ခန်းရပ်လိုက်ပါတော့သည်။

## ဘုရားနှင့်စပ်တိုင်း လက်အုပ်ကလေး ချီ၍ချီ၍

### ဘုရားအာရုံ ကောင်းစွာထုံခဲ့

စစ်ကိုင်းတောင်ရိုး ပထမ မဟာဂန္ဓာရုံဆရာ တော်ဘုရားသည် ဗုဒ္ဓါနုဿတိကို အထုံများခဲ့၏၊ ဘုရားကို အထူးကြည်ညိုတော်မူသည်၊ ဆရာတော် ဘုရားက အားထုတ်အပ်သော ဘာဝနာကိုပင် ဗုဒ္ဓါနုဿတိကို အထွတ်တင်ကာ ဆင်ခြင်ရှုပွား တော်မူသည်ဟူ၏၊ မိမိထံမှောက်သို့ ရောက်လာ သော တပည့် ဒါယကာ ဒါယိကာမတို့အား တရား ဓမ္မ ညွှန်ပြဆုံးမတော်မူလိုလျှင်လည်း (ဗုဒ္ဓါနုဿတိ မေတ္တာ စ, အသုဘာ မရဏဿတိ) စသော စတု ရာရက္ခတရား လေးပါးကို ဟောကြားတော်မူလေ့ ရှိသည်။

အရှင်ဇနကာဘိဝံသလည်း မိဘဘိုးဘွား ယေ် ဆရာသမားတို့မှစ၍ ဆရာ့ဆရာဘုရားတို့၏ အဆုံး အမအရလည်းကောင်း, အထူးအားဖြင့် မိမိ၏ ဥပဇ္ဈာယ်ဆရာ စစ်ကိုင်းတောင်ရိုး ပထမ မဟာ ဂန္ဓာရုံ ဆရာတော်ဘုရား၏ ဟောကြား ညွှန်ပြ ဆုံးမချက်အရလည်းကောင်း, ကလေးဘဝမှ အစ



သဗ္ဗညုတဉာဏ်တော်ကြီးနှင့်စပ်မိတိုင်း လက်အုပ်ကလေး ချီ၍ချီ၍

ပြုကာ ကိုယ်တိုင် သင်ကြား လေ့လာခဲ့ရသော ပိဋကတ်တော်တို့၏ စွမ်းအားကြောင့်လည်းကောင်း ဗုဒ္ဓါနုဿတိ (ဘုရားအာရုံ)ကိုပင် အထုံများခဲ့ရလေ၏၊ ဤသို့ဖြင့် သက်တော် ၆၀ ကျော် ၇၀ အတွင်းသို့ ရောက်လာသောအခါ ဘုရားကို ပို၍ပင် ကြည်ညိုလာတော့သည်၊ အဘယ့်ကြောင့်နည်း?...

မိမိကိုယ်တိုင် နေ့စဉ်ကျက်စား၍ ရေးသားခဲ့ရသော ကျမ်းစာတို့က ယခုအခါ ဝိနည်း သုတ္တန် အဘိဓမ္မာ စုံလင်အောင် ပြီးစီး၍လာခြင်း၊ ပါဠိဘာသာဖြင့် ဖွင့်ဆိုထားသော အဋ္ဌကထာကြီးများ၏ လေးနက်မှုကို ပို၍ ခရေစေ့တွင်းကျ သိလာရခြင်း၊ ထို့ထက် အဆ ရာ ထောင်မက သာလွန်သော သဗ္ဗညုတဉာဏ်တော်ကြီး၊ ထိုဉာဏ်တော်ကြီးဖြင့် ဟောကြားအပ်သော တရားတို့၏ သဘောသဘာဝကို သမုဒ္ဒရာအလယ် ယုန်သူငယ်ကဲ့သို့ ထောက်၍ မမီ လိုက်၍မမီနိုင်အောင် နက်ရှိုင်းကျယ်ပြန့်လှသည်ကို ပို၍ပို၍ သိလာရခြင်းတို့ကြောင့် ဖြစ်ပေသည်။

## ပို၍ သိလေ ပို၍ ကြည်ညိုလေ

သဗ္ဗညုတဉာဏ်တော်ကြီးကို မော်၍ မျှော်မှန်းမိတိုင်း ဦးညွတ်မိ၏၊ အာရုံပြုမိတိုင်း လေးစားမိ၏၊ နှုတ်က ဖွင့်ထုတ်မိတိုင်း လက်အုပ်ချီမိတော့သည်၊ ကျယ်ပြန့်နက်ရှိုင်း အတိုင်းအဆ နှိုင်းမရပုံကို သိရလေ ပို၍ ကြည်ညိုလေ၊ ပို၍ လေးစားလေ ဖြစ်တော့၏၊ ထို့ကြောင့် ဆရာတော် အရှင်ဇနကာဘိဝံသက အောက်ပါအတိုင်း သဗ္ဗညုတဉာဏ်တော်ကြီးကို ထိုထိုကျမ်းစာ အဋ္ဌကထာဖွင့်များနှင့်အညီ ဖွဲ့ဆို ရှိခိုး ဦးခိုက်ထားသည်။

**၁။ သိရန်မှန်က၊ မကျန်ရအောင်၊ လုံးဝစုံလင်၊ အကုန်မြင်၊ သဗ္ဗဉ်ဉာဏ်တော်အစွမ်းတည်း။**

**၂။ သိသည့်တရား၊ များအပြားခွဲ၊ ဟောထားစဖွယ်၊ နည်းသွယ်သွယ်ကို၊ ခြယ်လှယ်စုံလင်၊ အကုန်မြင်၊ သဗ္ဗဉ်ဉာဏ်တော်အစွမ်းတည်း။**

**၃။ ကျွတ်ထိုက်ကြပေ၊ များဝေနေ၏၊ ဣန္ဒြေစရိုက်၊ သူ့အကြိုက်ကို၊ နှိုက်ချွတ်စုံလင်၊ အကုန်မြင်၊ သဗ္ဗဉ်ဉာဏ်တော်အစွမ်းတည်း။**

**၄။ ဉာဏ်တော်စွမ်းပကား၊ ဤ သုံးပါးကြောင့်၊ အများဝေနေ၊ ကျွတ်လွတ်စေဖို့၊ မနေမနား၊ သက်တော်အားဖြင့်၊ ကြီးမားလေဘိ၊ ရှစ်ဆယ်ပြည့်၍၊ ပရိနိဗ္ဗာန်၊ စံသည့်တိုင်အောင်၊ သယ်ယူဆောင်၊... ဘုန်းခေါင် ငါတို့ဘုရားတည်း။**

သိလွယ် မြင်လွယ် ထင်လွယ်၍ ကြည်ညိုဖွယ်ကောင်းလှ၏၊ အလုံးစုံအကုန်သိသော ဤသဗ္ဗညုတဉာဏ်တော်ကြီးကို လက္ခဏာကြီးငယ် အသွယ်သွယ်ဖြင့် သပ္ပာယ်လှသောကိုယ်ခန္ဓာ၌ ထည့်သွင်း၍ ထိုပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မြတ်အပေါ် "ဗုဒ္ဓ"ဟု ဘွဲ့တော်တင်ရသည်မှာလည်း အားရစရာ ကောင်းလှပါသည်။

**"လက္ခဏာတော်ကြီးငယ်၊ အသွယ်သွယ်ဖြင့်၊ သပ္ပာယ်လှစွာ၊ ကိုယ်အင်္ဂါငယ်၊ ပါရမီတော်အဟုန်၊ ကိုယ်လုံးခြုံ၍၊ မွှမ်းထုံသင်းကြူ၊ သယမ္ဘူဟု၊ ဉာဏ်တူ ကင်းလတ်၊ အရဟတ်ဖြင့်၊ သတ်ဖြတ်ခပင်း၊ ကိလေ ရှင်းသား၊ ဉာဏ်ရှင်းမဟာ၊ ကရုဏာနှင့်၊ သမ္မာ သမ္ဗောဓိ၊ အစရှိလတ်၊ ဉာဏ်တော်မြတ်၏၊ ကိန်းဝပ် စံပျော်၊ ခန္ဓာပေါ်ဝယ်၊ ဘွဲ့တော်ဗုဒ္ဓ၊ တင်ပါရသည်၊ လောကထွတ်ထား မြတ်ဘုရား..."**

## တရားကို မြင်မှ ဘုရားကို မြင်မည်

ဤသို့အားဖြင့် ဘုရားကို ကြည်ညိုမျှော်မှန်းနိုင်လာသောအခါမှ အများသူငါ မမြင်သာအောင် ကွယ်ကာထားကြသော တိမ်သလာတို့ကို ပို၍ သိနိုင်လာတော့သည်၊ သူသူငါငါတို့ကား တိမ်သလာတို့ကို မဖယ်ရှားနိုင်သဖြင့် စိုးတဝါးနှင့်ပြတ်ပြတ်သားသား မမြင်ရ၊ ထင်ထင်ရှားရှား မတွေ့ရ၊ ထိုသို့မမြင်ရ မတွေ့ရ၍လည်း ဘုရားအပေါ် လေးလေးပင်ပင် မရှိနိုင်ကြခြင်း ဖြစ်ပေလိမ့်မည်။

ဘုရားလက်ထက်တော်တုန်းက ဝက္ကလိမထေရ်သည် ဘုရားအနားမှ မခွာဘဲ အမြဲတမ်း မျက်နှာတော်ကို ဖူးနေ၏၊ ဖူး၍ မဝ၊ ကြာလာသော် ဘုရားက ဟန့်တားတော်မူရသည်၊ "ဝက္ကလိ-ငါဘုရား၏

မျက်နှာတော်ကို အနီးကပ် ဖူးမြော်နေသော်လည်း ငါဘုရားကို မြင်သည်ဟု မဆိုနိုင်၊ တရားကို မြင်မှ ငါဘုရားကို မြင်သည်ဟု ဆိုနိုင်၏။"

ဤဒေသနာတော်အရ အပြင်ပန်း ရုပ်ဖြစ်၌မျှသာ ရပ်တန့်နေသော ကြည့်ရှုမှုမျိုး မြင်မှုမျိုး ဖူးမြော်မှုမျိုးကို ဘုရားက မချီးမွမ်း၊ အတွင်းသားအနှစ်သာရဟု တရားဓမ္မကို ရအောင် ကျင့်မှ မြင်မှ "မြင်သည်"ဟု ဆိုလိုတော်မူခြင်း ဖြစ်၏။

ထိုကဲ့သို့ အစစ်အမှန် အမြင်မျိုး (သို့မဟုတ်) ထို အမြင်မျိုးလောက်နီးပါး မြင်ရသူတို့ ဖြစ်မှသာ ဘုရားနှင့် အမှန် နီးကပ်လာသူ, ဘုရားကို လေးလေးနက်နက် ကြည်ညိုလာသူ, ဘုရားအပေါ် သက်သက်ဝင်ဝင် ယုံကြည်နိုင်သူဟု ဆိုနိုင်မည် ဖြစ်၏။

ဆရာတော် အရှင်ဇနကာဘိဝံသသည်လည်း ထိုအလားပင်၊ ဘုရားအပေါ်၌ ကြာလေ ကြည်ညိုလေ, ကြာလေ လေးစားလေ, ကြာလေ "ဘုရား" ဟူ၍ နှုတ်ဖျားမှ နှုတ်ဖျားမှ ရွတ်ဆိုဖို့ရာ မထွက်ရက်လေဖြစ်ကာ အမွန်မြတ်ဆုံးအဖြစ် လေးလေးပင်ပင် ဦးထိပ်တင်ပါလေတော့သည်။

## ဘုရားသည်သာ အမွန်မြတ်ဆုံး

* "သာဝတ္ထိမှလာသော လှည်းကုန်သည်တို့... အသင်တို့ တိုင်းပြည်မှာ ထူးထူးဆန်းဆန်း မွန်မွန်မြတ်မြတ် ဘာသတင်းများ ရှိပါသလဲ, ပြောစမ်းပါ" ဟူ၍ ကုက္ကုဋဝတီမြို့ကြီးသခင် ဘုရင်ကြီး မဟာကပ္ပိနက မေးမြန်းရာ "ရှိပါတယ် အရှင်မင်းကြီး, ဒါပေမယ့် အဲဒီ သတင်းကို တန်းပြီး မပြောနိုင်ပါဘူး၊ ပါးစပ်ကို ရေနှင့် ပလုတ်ကျင်းပြီး သန့်သန့်ရှင်းရှင်း ဖြစ်မှ ပြောနိုင်ပါမယ်"ဟု သံတော်ဦးတင်ကြလေ၏၊ သို့ဖြစ်၍ ရေကို ပေးရာ ပါးစပ်ကို သေသေချာချာ ဆေးကြောသန့်ရှင်းပြီးမှ "အကျွန်ုပ်တို့ တိုင်းပြည်၌ ဘုရား တရား သံဃာ မွန်မြတ်တဲ့ ရတနာတွေ ပေါ်ပေါက်နေပါတယ်"ဟု ပြောသကဲ့သို့ ဖြစ်တော့သည်။

ထို့အတူ ဆရာတော် အရှင်ဇနကာဘိဝံသကလည်း ဘုရားကို အလွန့်အလွန် လေးစား၍တန်ဖိုးထားကာ ဘုရားကို မချေမငံ ပြောသူတို့အား, ဘုရားကို ပေါ့ပေါ့ဆဆ သဘောထားသူတို့အား အမြဲတမ်း ကာကွယ် ဆန့်ကျင်တော်မူ၏။

"အခုခေတ်မှာ သိပ္ပံတွေ ထွန်းကားတယ်ဆိုပြီး ဘုရားကိုခေတ်မမီသလိုလို သိပ္ပံလောက် လက်တွေ့မပြနိုင်သလိုလို သဗ္ဗညုတဉာဏ်တော်ကြီးကိုပင် ကွန်ပျူတာစက်လောက် မတိကျသလိုလို ပြောတတ်ကြတယ်၊ အလိုလေး...ပြောမှ ပြောရက်ကြပလေလို့ ဘုန်းကြီးက အောက်မေ့တယ်၊ သူတို့ စကားတွေဟာ ရင့်သီးလှပါတယ်၊ နားထဲမှာလဲ မခံသာအောင်ပဲ၊ သူတို့က ဘုရားအဖြစ်ကို ခြေခြေမြစ်မြစ်မှ မသိကြပဲကိုး။"

"အဲလို ပုဂ္ဂိုလ်တွေက ဘုရားကို မကြည်ညိုချင်နေပါ၊ ဘုန်းကြီးတစ်ပါးတည်း ကြည်ညိုမယ်၊ အဲလိုပုဂ္ဂိုလ်တွေက ဘုရားကို မကိုးကွယ်ချင်နေပါ၊ ဘုန်းကြီးတစ်ပါးတည်း ကိုးကွယ်မယ်၊ အဲဒီပုဂ္ဂိုလ်တွေက သူတို့ဘုရား မလုပ်ချင် နေပါ၊ ဘုန်းကြီးတစ်ပါးတည်းရဲ့ဘုရားပဲ"ဤသို့ စသည်ဖြင့် မိန့်လေ့ရှိတတ်ပါသည်။

## အသက်ရှိလို သဘောထားပါ

ဆရာတော်က အမိန့်ရှိတတ်သည်၊ "မင်းတို့တစ်တွေ ဘုရားကို ကြည်ညိုတဲ့အခါ အသက်ထင်ရှားရှိတဲ့ဘုရား (လွန်ခဲ့တဲ့ နှစ်ပေါင်း ၂၅၀၀ ကျော်ကပွင့်ခဲ့တဲ့ဘုရား)ကို ရောက်အောင် လှမ်းပြီး အာရုံယူပါ၊ ရုပ်တုတော် ဆင်းတုတော်လောက်တွင် ရပ်မနေပါနှင့်၊ ရုပ်တုတော် ဆင်းတုတော်ကိုလည်း အသက်ရှိတဲ့ ဘုရားလို သဘောထားပါ၊ ရိုသေပါ၊ လေးစားပါ၊ ဘုရားကို ဆွမ်းလှူ ရေကပ် ပန်းကပ် လုပ်လိုတဲ့အခါမှာလဲ အသက်ရှိတဲ့ဘုရားအားလှူသလို သဘောထားပါ။

တချို့နေရာတွေမှာ တွေ့ရတတ်တယ်၊ ဘုရားခန်းက ကျဉ်းကျဉ်း, ကြည်ညိုတယ်ဆိုပြီး ပန်းတွေ

* နိဒါနဝဂ္ဂ သံ ၊ ၃ – ၂၁၃၊

တင်ထားလိုက်ကြတာ၊ ဘုရားရှေ့မှာ ပန်းအိုးကြီးတွေနှင့်ဝေလို့ ဘုရားမျက်နှာတော်ကိုတောင် ကွယ်နေတယ်၊ ဆီမီးတိုင်တွေ ထွန်းထားတာကလဲ အနံ့တွေက ညှော်လို့ နံလို့၊ ရုပ်တုတော်မို့သာပေါ့၊ မမိန့်တာ၊ သက်တော်ထင်ရှား ဘုရားသာဆိုရင် "မင်းတို့ဟာတွေ ငါ့သွားလို့ လာလို့ မရအောင်တောင် ပန်းတွေက ငါ့ရှေ့မှာ ရှုပ်နေတာပဲ၊ မီးခိုးနံ့တွေကလဲ ညှော်လိုက်တာ"လို့ မိန့်တော်မူမှာ။

ဒီတော့ ပန်းကပ်တယ်ဆိုရင် ရှေ့တည့်တည့်ကြီးမှာ ဘယ်ကောင်းမလဲ၊ ဘုရားနှင့်ခပ်စောင်းစောင်းနေရာ အနိမ့်စားပွဲပေါ်မှာ တင်သင့်တာပေါ့၊ ပန်းကိုပြင်တဲ့အခါမှာလဲ တချို့သူတွေက လှတဲ့အပွင့်အခိုင်တွေကို ဘုရားဘက်မှာ မထားတတ်ကြဘူး၊ ဧည့်သည်တွေလာရင် တန်းပြီးမြင်နိုင်တဲ့ မိမိတို့ရဲ့ ရှေ့မျက်နှာစာဘက်မှာ ထားတတ်ကြတယ်၊ မှားတာပေါ့, ဘုရားလှူတာမယုတ်လား၊ ဘုရားဘက်မှာ ထားရမှာပေါ့။

ဆွမ်းကို ကပ်တဲ့ အခါမှာလဲ အသက်ရှိလို သဘောထားပြီး တစ်ပါးစာ ဝလောက်အောင်တော့ ကပ်လှူပါ၊ အခုကပ်ကြတာက နတ်တင်သလို နည်းနည်းကလေး၊ ဟင်းခွက်မစုံချင်နေပါစေ၊ ရှိသမျှနှင့် တစ်ပါးစာ ဝလောက်အောင်တော့ ကပ်ပါ၊ ဆွမ်းတွေ ဟင်းတွေ များလွန်းလို့ လက်မလွှတ်နိုင်ရင် နောက်တော့ စွန့်ပြီး စားပေါ့၊ စားကောင်းပါတယ်၊ ဉာဏ်မထိုင်းပါဘူး၊ ဉာဏ်ကောင်းတဲ့ပုဂ္ဂိုလ်ကြီးရဲ့ အကြွင်းအကျန်စားတာပဲ၊ ဉာဏ်ဓာတ်တွေ ကူးလာဖို့တောင် ရှိပါတယ်၊ ဘုရားဝေယျာဝစ္စ လုပ်ပြီးတော့ စားပေါ့။

တောရကိုယ်တော်ကြီးတွေ တချို့ဆိုရင် ဆွမ်းခံပြန်လာ, သပိတ်အတိုင်း ဘုရားကို လှူလိုက်တာပဲ၊ နောက်မှ စွန့်ပြီး စားကြတာ"ဟူ၍ ဘုရားနှင့်စပ်ပြီး ဖြစ်သင့်သမျှ ညွှန်ပြတတ်ပါသည်။

## ဘုရားစကားကို လေးစား ဦးထိပ်တင်

ဤသို့လျှင် ဆရာတော်က ဘုရားရှင်၏ ဂုဏ်တော်တို့ကို သိ၍ ဘုရားရှင်၏ ဉာဏ်တော်ကြီးကို ကြည်ညိုလှသဖြင့် ထိုဉာဏ်တော်ကြီးဖြင့် ဟောတော်မူအပ်သော တရားတော်များကိုပါ တန်ဖိုးထား လေးစားတော်မူ၏၊ ဆရာတော် အရှင်ဇနကာဘိဝံသသည် ပိဋကတ်တော်၏အဖွင့် အဋ္ဌကထာကြီးများကို ချပို့လေ့, အမိဘာသာသို့ ပြန်ဆိုရေးသားလေ့ ရှိတော်မူ၏၊ ထိုအဖွင့် အဋ္ဌကထာကြီးများကို တပည့်တို့အား ချပို့ရာတွင် စာသင်ခန်းမထဲ၌ ကုလားထိုင်အမြင့်ပေါ်မှ နေ၍ ချပို့လေ့ရှိသော်လည်း ဘုရားဟော နှုတ်တော်ထွက် ပါဠိတော်များကို ချပို့သောအခါတွင်မူ ကုလားထိုင်ပေါ်မှာ မနေတော့ပါ။

စာပေချပို့သော အစဉ်အလာမှာ ဦးစွာပထမ အဖွင့်အဋ္ဌကထာများကို ချပို့ရ၏၊ ထိုမှဖြင့် မထင်ရှားသေးလျှင် ဋီကာများကိုပါ လှန်၍ ရှင်းလင်းချက်ယူရသည်၊ ထို့နောက်တွင်မှ ဤအဖွင့်များနှင့်ဆိုင်သော ဘုရားဟော ပါဠိတော်များကို ဆိုရ ချပို့ရမြဲဖြစ်လေသည်၊ ထိုအခါ တပည့်များ၏ ကြမ်းပြင်အနိမ့်ပေါ်မှ နေ၍ ဆိုသော ပါဠိတော်အသံကို ကုလားထိုင်အမြင့်ပေါ်မှ နေ၍ နာရာရောက်မည်စိုးသောကြောင့် ကုလားထိုင်ပေါ်မှ ဆင်းကာ မတ်ရပ် နာတော်မူသည်၊ ကျမ်းစာအုပ်၌ ထည့်သွင်းဖို့ရာ ထိုပါဠိတော်ကို အနက်ရေးခဲ့စေ၍ နောက်တစ်နေ့ ဖတ်ပြစေရာတွင်လည်း ထို့အတူပင် မတ်ရပ်ထလျက် နာတော်မူ၏၊ ဤမျှ လေးစားတော်မူသည်။

## လက်အုပ်ကလေး ချီ၍ချီ၍

ထိုမှတစ်ပါးလည်း ဘုရားရှင်၏ နှုတ်တော်ထွက် ပါဠိတော်များ, စကားလုံးများ, ဂါထာများကို အကြောင်းအားလျော်စွာ ရွတ်ဆိုဖို့ ကြုံလာသော အခါတွင်လည်း ရှိသေသောအားဖြင့် လက်အုပ်ကလေး ချီလိုက်ပါသေး၏၊ ပြီးမှ နှုတ်က ထုတ်ဖော်ရွတ်ဆိုတတ်ပါသည်၊ ဥပမာ-ဓမ္မပဒလာ မသေရာနိဗ္ဗာန်သို့ ရောက်ဖို့အကြောင်းတရားကို ပြောဆိုရာ၌ ဦးစွာပထမ လက်နှစ်ဖက်ကို ပူးယှက်မြှောက်ချီ



ဘုရားနှုတ်တော်ထွက်
ဓမ္မစက်ကို
ရွတ်ဆိုသမျှတိုင်းလည်း
လက်အုပ်ကလေး
ချီကာ ချီကာဖြင့်



ဒကာ ဒကာမများအတွက်လည်း နေ့စဉ် သဒ္ဓါတရားနှင့် ကုသိုလ်စိတ်များ တိုးပွားစေပါသည်။

အဥ္စလီပြုပြီးမှ "အပ္ပမာဒေါ အမတံ ပဒံ, ပမာဒေါ မစ္စုနော ပဒံ"ဟု ရွတ်ဆိုတတ်ပါသည်။

အလားတူပင် "ရန်ကို ရန်ချင်း မတုံ့လျှင်းရ" ဟူသော အကြောင်းနှင့်ပတ်သက်၍ "န ဟိ ဝေရေန ဝေရာနိ, သမန္တီဓ ကုဒါစနံ"ကို ရွတ်ဆိုရာတွင်လည်း လက်အုပ်ချီလိုက်ပါသေးသည်၊ အခြား အခြားသော ဘုရားနှုတ်တော်ထွက် ဓမ္မစကက်ို ရွတ်ဆိုသမျှ တိုင်းလည်း ဤအတိုင်းလည်း ဖြစ်ပါ၏။

"ဟေတုပစ္စယော၊ အာရမဏပစ္စယော" စသည်ကို ရွတ်ဆိုသောအခါတွင်လည်း လက်အုပ်ကလေး ချီကာ ချီကာဖြင့် နောင်လာနောက်သားတို့ အတုယူစရာ ကြည်နူးစရာပင် ဖြစ်ပါတော့သည်။

ထိုအခါ အစဉ်အလာက စာရေးကောင်းခဲ့သော ပျော့ပျော့ပျောင်းပျောင်း ဝဝဖောင်းဖောင်းနှင့် ဆရာတော်၏ လက်ချောင်းကလေးတို့သည် ဘုရားကို ကြည်ညို ဦးညွတ် လက်အုပ်ချီရာတွင်လည်း ကြာဖူးကြာငုံအသွင် ရွှေ့တန်းက ပါဝင်၍ တာဝန် တစ်ရပ်အနေဖြင့် ဆရာတော်၏ ကိုယ်စားပြုနေကြပြန်လေပြီ။

ဤသို့လျှင် ဆရာတော်ကား ဘုရားနှင့် စပ်တိုင်း လက်အုပ်ကလေး ချီ၍ ချီ၍...။

## နံနက်ခင်းသြဝါဒဖြင့် ထိန်းချုပ် စုစည်းထားခြင်း
### ငြိမ်ဝပ်အောင် နည်းလမ်းရှာခဲ့

ဆရာတော် အရှင်ဇနကာဘိဝံသက "သံဃာ ပရိသတ်ကို ငြိမ်ဝပ်အောင် မည်သို့ အုပ်ချုပ်ရမည်နည်း"ဟု သုံးသပ်သည်၊ နည်းလမ်းရှာသည်၊ ပရိသတ်သည် အစားစား ရှိ၏၊ ငယ်ငယ်ပရိသတ်, ရွယ်ရွယ်ပရိသတ်, ကြီးကြီးပရိသတ်တို့ ဖြစ်သည်။ ဆရာတော် အရှင်ဇနကာဘိဝံသ အုပ်ချုပ်နေရသော ပရိသတ်သည် ငယ်ငယ်နှင့်ရွယ်ရွယ်တို့သာ များကြ၏၊ ယင်းတို့မှာ မိခင်အရိပ်မှ မလွတ်သေးသော အရွယ်တို့သာ ဖြစ်ကြသည်၊ ရင်အုပ်မကွာ ထိန်းသိမ်းရသောအရွယ်, အစဉ်ထာဝရ တတွတ်တွတ် ပြောဆိုနေနိုင်မှ တန်ကာကျသောအရွယ်တို့သာတည်း၊ ဤသည့်အချက်ကို သတိပြုမိတော်မူပေလိမ့်မည်၊ အသက်အရွယ်အားဖြင့် ကြီးမားသော ပုဂ္ဂိုလ်တို့မှာ တစ်ကြိမ်တစ်ခါမျှ ဆုံးမလိုက်ရုံဖြင့် ကြာရှည်လေးမြင့် ခံယူလိုက်နာနိုင်ကြသည်၊ သက်တမ်းရှည်တော်မူကြသော ဘုရားရှင်တို့ လက်ထက်တော်မှာ သုံးနှစ်ကြာမှ တစ်ကြိမ် သြဝါဒပါတိမောက်ကိုပြတော်မူရုံမျှဖြင့် လုံလောက်ကြ၏၊ သက်တမ်းတိုတော်မူသော မိမိတို့ဘုရားရှင်လက်ထက်တော်၌ကား ၁၅ ရက်တစ်ကြိမ် ပါတိမောက်ပြမှ လုံလောက်ရသကဲ့သို့တည်း၊ ဤသည့်အချက်ကို ဤသို့လျှင် တွက်ဆထားတော်မူ၏။

### နံနက်ခင်းသြဝါဒသဘင်

အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်၏ အလေ့မှာ အရုဏ်ဆွမ်းစားအပြီး နံနက်စောစော စာတက်ရသော ထုံးစံရှိသည်၊ နံနက်တိုင်း ငါးနာရီတိတိ တွင် စာတက်တုံးကလေး ခေါက်လေ့ရှိရာ အချို့ ရာသီဥတုမှာ ထိုအချိန်၌ပင် စာကို မမြင်ရသေး ပေ၊ အလင်းရောင် ကောင်းကောင်းမရသေး၍ စာကို မချသေးဘဲ အခြား သိဖွယ် မှတ်ဖွယ်ကလေး များကို ဆရာတော်က ပြောပြောပေးရာမှ အကျိုးဖြစ်ထွန်းသည်ကို တွေ့လာရတော့၏၊ ထိုသို့ တွေ့လာရသဖြင့် ယခင်က တွက်ဆထားသော မှုကို အကောင်အထည်ဖော်ခြင်း ဖြစ်တော့သည်။

"နံနက် အရုဏ်ဆွမ်းစားအပြီး တက်ရသော စာဝါကို ရဟန်း သာမဏေ ဖိုးသူတော်ကလေးများ ပါ မကျန် အကုန်လိုက်ကြရမည်"

ဤသို့ အမိန့်ထုတ်လိုက်သောအခါ တစ်ကျောင်းတိုက်လုံး စုရုံး ရောက်လာကြတော့သည်၊ ခန်းမကျယ်သော တစ်နေရာတွင် စုဝေးကြရ၏၊ ဝေလီဝေလင်း ဖြစ်၍ အလင်းရောင်ကား ဝိုးတဝါးမျှသာတည်း၊ စာမမြင်ရသေး၊ ထို့ကြောင့် စာမချသေးဘဲ ဆရာတော်က သြဝါဒပေးသည်။

ဩဝါဒပေးရာ၌ ယခုချပို့ဆဲစာထဲက အကြောင်းအရာနှင့်စပ်၍ သိမှတ်ဖွယ်ရာများကို ဖြစ်စေ, ကိုယ်ကျင့် စာရိတ္တ ဝိနည်းကျင့်ဝတ်နှင့်စပ်၍ ဖြစ်စေ, ပတ်ဝန်းကျင်၌ ဖြစ်ပေါ်နေသော အခြေအနေနှင့် စပ်၍ဖြစ်စေ ကြုံသလို ဩဝါဒပေးတော်မူတတ်၏၊ မိနစ် ၃၀ ခန့်, ၄၅ မိနစ်ခန့် ဩဝါဒပေးပြီးမှ ငယ်ရွယ်သောပုဂ္ဂိုလ်များကို ပြန်၍ လွှတ်လိုက်သည်၊ စာလိုက်နိုင်မည့် အဆင့်မြင့်သောပုဂ္ဂိုလ်တို့ကို ချန်ထား၍ တစ်နာရီခန့် စာတစ်ဝါ ချပို့ပေးတော်မူလေ့ရှိသည်။



နေ့စဉ် နံနက်ခင်း ဩဝါဒပေးခြင်းဖြင့် သံဃာများ စုစုစည်းစည်း တစ်သားတည်း နေနိုင်ကြအောင်

## တိုက်လုံးကျွတ် ပရိသတ်စုံညီ

ဤသို့လျှင် တွေးခေါ်ယူဆချက်နှင့် လက်တွေ့လုပ်ရပ်တို့ကို ပေါင်းစပ်ပြီးနောက် ဖြစ်ပေါ်လာသော အကျိုးတို့ကို သုံးသပ်ကြည့်သောအခါ ပိုမိုအောင်မြင်လာသည်ကို တွေ့နေရ၏၊ ဤပွဲသည် ပရိသတ်စုံညီ တိုက်လုံးကျွတ်သဘင် နေ့စဉ် ကျင်းပနေသလိုလည်း ဖြစ်တော့သည်၊ ဆုံးမစရာရှိလျှင် ဤပွဲတွင် ဆုံးမ၏၊ ပြုပြင်စရာရှိလျှင် ဤပွဲတွင် ပြုပြင်၏၊ မှာထားစရာ ရှိလျှင်လည်း ဤပွဲတွင် မှာထား၏၊ အပြစ်တင်စရာရှိလျှင်လည်း ဤပွဲတွင် အပြစ်တင်၏၊ ဒဏ်ပေးစရာ ရှိလျှင်လည်း ဤပွဲတွင်ပင် ဒဏ်ပေးလိုက်တော့သည်။

ဘုရားလက်ထက်တော်တုန်းက ကြီးမားသော အကြောင်းကိစ္စတစ်ခုခု ပေါ်လာလျှင် ရှင်တော်ဘုရားက သံဃာများကို အမိန့်တော်ထုတ်လို၍ စုရုံးစေတော်မူသည်၊ ဤသည့်အကြောင်းအရာကို စာထဲ၌ "တေသို့ နိဒါနေ, တေသို့ ပကရဏေ"စသည်ဖြင့်

လာ၏၊ ထိုအခါ အရှင်အာနန္ဒာက စုရုံးပေးရတော့သည်။

ယခု ထိုကဲ့သို့ စုံညီသော ပရိသတ်ကို နေ့စဉ်နံနက်တိုင်း တွေ့နေရ၏၊ ဆရာတော်နှင့် ထိတွေ့နေရသဖြင့် မပြတ်သော ဩဝါဒကို ရရှိနေကြ၏၊ ဩဝါဒရေချမ်းဖြင့် ဆွတ်ဖျန်းခြင်း အမြဲခံနေရသော အခါ အဘယ်မည်သော တပည့်ပန်းသည် မလန်းဘဲ နေနိုင်တံ့အံ့နည်း၊ လန်းရမည်သာတည်း။

ဤသို့သော ခံယူချက်ဖြင့် ၁၃၁၀ ပြည့်နှစ်လောက်မှစ၍ ဤမူဝါဒကို ဆရာတော်က ကျင့်သုံးလာခဲ့ခြင်း ဖြစ်သည်၊ ယခုတိုင်အောင်လည်း ရှေးမူမပျက် ဆက်လက်၍ ကျင့်သုံးတော်မူကြဆဲဖြစ်သည်။

## နံနက်ခင်းအစည်းအဝေး

ယခုနောက်ပိုင်းတွင်ကား... နံနက်ခင်း (သံဃသန္နိပါတ-သံဃာတော်များ၏ ညီမူရာစုံညီ အစည်းအဝေး) သံဃာတော်များအတွက် ဩဝါဒပေးပွဲကိုပင် အမရပူရမြို့ထဲမှ ဝါသနာပါသော ဒါယကာ ဒါယိကာမ အချို့တို့ပါ လာရောက် နာယူနေကြတော့သည်၊ နေ့စဉ်နေ့တိုင်း အရေအတွက် မနည်းလှချေ၊ သူတို့အတွက် နေရာပင် သီးသန့်ပေးထားရသည်၊ သူတို့အဖို့ တရားပွဲပင် ဖြစ်တော့၏၊ မင်္ဂလာရှိသော အချိန်အခါဟုလည်း ဆိုကြသည်။

ဆိုလည်း ဆိုလောက်ပါပေ၏၊ ထိုအထဲတွင် ဝတ်မပျက်တမ်းလာကြသော ဒကာမြညွှန့်, ဒကာထွန်းအေး, ဒကာမောင်မောင် စသူတို့ကား ဇွဲအသန်ဆုံးဖြစ်ကြ၏၊ ဝါသနာပါကြသော အခြား ဒါယကာ ဒါယိကာမတို့လည်း ဝတ်ပျက်လှသည် မရှိပေ။

သူတို့အတွက် နံနက်စောစောတွင် တည်ငြိမ်သည့် ၅၀၀ ကျော်မျှသော သံဃာ့ပရိသတ်ကို တစ်နေရာတည်း၌ အလွယ်တကူ ဖူးတွေ့ရ၍ "ဒဿနာနုတ္တရိယ"ဖြစ်ခြင်း, သံဃာတော်များအတွက်ဩဝါဒပင် ဖြစ်လင့်ကစား ရပ်ထဲ ရွာထဲ၌ ကြားနေရသော အသံတို့ထက် ချမ်းမြေအေးကြည်သော အရသာကို ခံစားရခြင်း, စိတ်နှလုံး နူးညံ့ရခြင်း, သဒ္ဓါတရားနှင့် ကုသိုလ်စိတ်များပွားရခြင်း, အခြားသော ဗဟုသုတ အထွေထွေကို မှတ်သားနာခံရခြင်း စသည့်အကျိုးများ ရရှိကြ၏။

ထို့ကြောင့် ခိုက်ခိုက်တုန်သော ဆောင်းကာလ, ချွေးတပြိုက်ပြိုက်နှင့် ပူအိုက်သော နွေကာလ, ရွှဲရွှဲစိုသော မိုးကာလတို့၌ပင် စိုက်လိုက် မတ်တတ် မပြတ်မှန်မှန် လာနေကြတော့သည်။

## အောင်မြင်ခြင်း အကြောင်းရင်းခံ

ဤသို့ တစုတရုံးတည်း, တစ်သွေးတစ်သားတည်း, တစ်နေရာတည်း၌ စုရုံး၍ရသည်မှာလည်း အကြောင်းမဲ့ဖြစ်နေသည်မဟုတ်ပါ၊ အကြောင်းရင်း အခြေခံရှိပါသည်။

အနီးကပ်ဆုံးသော အကြောင်းရင်းကို ရှာရ လျှင် တစ်အိုးတည်းစား, ကျောင်းပရိဝုဏ် အကန့်မခြားဘဲ တစ်သားတည်းနေ, တစ်အာဏာရဲ့အရိပ်မှာ တစ်ဆွေတစ်မျိုးတည်းလို, တစ်မိသားစုလို စုစုစည်းစည်း နေထိုင်ခဲ့ကြ၍သာ ဖြစ်ပါသည်၊ ထိုသို့ အခြေအနေမျိုး မဟုတ်ခဲ့လျှင် ဤကဲ့သို့ စုစည်း၍ ရမည် မဟုတ်ပါ။

ထို့ကြောင့် သာသနာတော်၌ ဆရာနှင့်တပည့် ပိပိရိရိ စုစည်းနေထိုင်ရေး, တိတိကျကျ ဆုံးမနိုင်ရေး, သပ်သပ်ရပ်ရပ် ပြုပြင်နိုင်ရေး စသည်တို့ဖြစ်ဖို့ဆိုလျှင် ဤအခြေခံ အကြောင်းရင်းများရှိရန် ကောင်း လိုအပ်ပါလိမ့်မည်။

## အနာဂတ်ကို ပိုင်ဆိုင်သူမှာ ပစ္စုပ္ပန်ကလေးငယ်များသာ ကြီးကျယ်ခြင်းသည် သေးငယ်ခြင်းမှ စရ

အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်၌ ... အငယ်ဆုံး ပရိသတ်သည် ဖိုးသူတော်ကလေးများ ဖြစ်ကြ၏၊ ၈ နှစ်, ၉ နှစ်, ၁၀ နှစ်ရွယ်ကလေး များ ဖြစ်ကြသည်၊ ယခုအခါ စာချဘုန်းကြီးများ ဖြစ်နေသော အချို့ပုဂ္ဂိုလ်တို့ပင်လျှင် ထိုဖိုးသူတော်ကလေးများဘဝမှ စခဲ့သူများလည်း ရှိကြ၏။

ထို့ကြောင့် "အကြီးသည် အငယ်မှ ဖြစ်လာရ၏၊ အမြင့်သို့ ရောက်ဖို့ရာ အနိမ့်မှ တဖြည်းဖြည်း တက်ခဲ့ရ၏၊ ကြီးကျယ်ခြင်းသည် သေးငယ်ခြင်းမှ စခဲ့ရ၏" ဟူသကဲ့သို့ ဖြစ်သည်။

ဤသဘောကို ဆရာ့ ဆရာတော်ဘုရားကြီးများ မျက်ခြည်အပြတ် မခံခဲ့ကြပေ၊ ဂန္ဓာသမုဒ္ဒါပက ပထမ ရွှေကျင်ဆရာတော်ဘုရားကြီးသည် ဤမျှ သေးငယ်သော ဖိုးသူတော်ကလေးများကိုပင် သာသနာတော်အတွက် အစီအစဉ်တကျ မွေးမြူတော်မူခဲ့၏၊ ဒုတိယစသော ရွှေကျင်ဆရာတော်ဘုရားများလည်း အလားတူပင် ဖြစ်ကြသည်။

ဆရာတော် အရှင်ဇနကာဘိဝံသကလည်း ဤ ဖိုးသူတော်ကလေးများကို မေ့ပစ်၍မထားပေ၊ ဆရာ့ဆရာတော်ဘုရားများကဲ့သို့ပင် အစီအစဉ်တကျ မွေးမြူတော်မူခဲ့ပါ၏၊ "အစကောင်းမှ အနှောင်းသေချာ" ဆိုရိုးစကားရှိသည် မဟုတ်ပါလော။

ထို့ကြောင့် ဤသူတော်ကလေးများ၏ စိတ်နေစိတ်ထား, အသွားအလာ, အစားအသောက်, အဝတ်အရုံ, အနေအထိုင်, ကျန်းမာရေး, ပညာရေး, ယဉ်ကျေးမှုတို့ပါ အထူး ဂရုပြုတော်မူ၏၊ ငယ်စဉ်ကပင် အချိုးကျနအောင် ပြုစုပျိုးထောင်ပြုပြင်ပေးတော်မူသည်။

ဤသူတော်ကလေးများအတွက် လောကုတ္တရာပါဠိစာပေရေးရာတို့၌ အထူးစိမ်ဖွယ်မလို၊ ကိုရင်ငယ်ကလေးများနှင့်တွဲ၍ သင်ပေးနိုင်သော်လည်း မြန်မာစာအရေးအသား, ခေတ်အလျောက် ဂဏန်းသင်္ချာ စသည်တို့အတွက်ကား (အတန်းကျောင်းတို့၌ နေခဲ့ရသူများ မဟုတ်ကြ၍) လစ်လပ်ပြီး ကျန်မနေရစ်စေရန် ဆိုင်ရာအုပ်ထိန်းသူတို့က သင်ကြားပေးဖို့ မကြာခဏ သတိပေးတော်မူတတ်၏။

## သူတော်ကလေးများ ထားရခြင်း

ထို့ကြောင့် အုပ်ထိန်းသူတို့က စနစ်တကျ စီမံကြ၍ အထူး သင်ကြားပေးကြရသည်၊ ဤကိစ္စအတွက် တစ်ခါက ကျောင်းတိုက်သို့ ဥပုသ်ရက်ရှည်လာ၍ စောင့်နေသော မန္တလေးမြို့ ဆရာအတတ်သင်သိပ္ပံ သမိုင်းဌာနမှ ဆရာမ ဒေါ်ခင်မြကသင်ပြ ကြိုးစားကြည့်ဖူး၏၊ ကလေးသူငယ်များနှင့် လိုက်လျော်စွာ ၁ တန်းမှ ၄ တန်း ဂဏန်းသင်္ချာများကို သင်ကြားကြည့်သည်၊ "အရပ်ထဲမှ ကလေးတို့ထက် ပို၍ သိလွယ်သည်"ဟု ဆို၏၊ ဤသို့လျှင် အနာဂတ်ကို မြော်မြင်သော ဆရာတော်ဘုရားသည် ကလေးသူငယ်များကိုပါ အမှုမဲ့ထားတော်မမူခဲ့ပါ၊ အသေးငယ်ဆုံးမှ စ၍ အရွယ် အလတ်အကြီး အသီးသီးမညည်းမညူ ပြုပြင် ပျိုးထောင်တော်မူပါသည်။

ဤသို့ ငယ်ငယ်ရွယ်ရွယ်မှစ၍ စနစ်တကျ ပြုပြင်ပေးခြင်းသည် ပို၍ အချိုးကျတတ်၏၊ မိမိ ပုံသွင်းလိုသည့်အတိုင်းလည်း ဖြစ်ပေါ်လာနိုင်သည်၊ ဝါးကို ရင့်ကာမှ ဖြောင့်ခြင်းထက် နုစဉ်က မီးကင်၍ ဖြောင့်လျှင် ပို၍ လွယ်ကူသကဲ့သို့ ဖြစ်တော့သည်။

ယခုအခါ တိုးတက်သောနိုင်ငံတို့၌လည်း တိုင်းပြည်၏ အနာဂတ်ကို ပုံ၍အပ်ရမည်ဖြစ်၍ စနစ်တကျ ပြည့်ဝသောဝန်ထမ်းများ ရရှိနိုင်ဖို့ ထက်မြက်သော ငယ်ရွယ်သူများကို ရွေးလျက် စီမံကိန်းဖြင့် သင်တန်းပေးတတ်ကြပါ၏၊ ထိုနည်းအတိုင်းပင်

ဆရာတော်ကလည်း အနာဂတ်သာသနာတော်အတွက် သင်တန်းပေးဖို့ရာ ငယ်ရွယ်သူများကို ပို၍ နှစ်သက်တော်မူပါသည်။

တစ်ဖန်လည်း ဤကဲ့သို့ ဖိုးသူတော်ကလေးများကို ထားခြင်းသည် ကျောင်းတိုက်၏ အနာမာသဝတ္ထုတို့ကို အပ်နှံဖို့ရာ ကပ္ပိယကာရကလည်း ရတော့၏၊ သူတော်ဝတ်ပေးထားခြင်းဖြင့် ညစာတာဝန်လည်း ငြိမ်းတော့သည်၊ ဤရည်ရွယ်ချက်များဖြင့် သူတော်ကလေးများစနစ်ကို လက်ခံထားခြင်း ဖြစ်လေသည်။



**အနာဂတ်ကာလတွင် သာသနာ့တာဝန်ကို ထမ်းဆောင်ကြမည့် မဟာဂန္ဓာရုံမှ ဖိုးသူတော်ကလေးများ**

## ငယ်ရွယ်သူများကို အထင်မသေးအပ်

မြွေပွေးကလေးများကို ငယ်သော်လည်း အဆိပ်ပြင်းထန်လှသဖြင့် အထင်မသေးအပ်၊ ထို့အတူပင် ထက်မြက်သော ကလေးသူငယ်တို့ကိုလည်း အထင်မသေးအပ်၊ မည်မျှ ကြီးကျယ်မြင့်မားလာမည်ကို မည်သူမျှ တပ်အပ်မသိနိုင်၊ တစ်ခါက တစ်ခုသော နေ့လယ်ခင်းတွင် ဆရာတော် အရှင်ဇနကာဘိဝံသသည် အမရပူရမှ မန္တလေး ရွှာဟိုင်းသုသာန်သို့ အသုဘရေစက်ချပေးရန် ရောက်နေ၏၊ နီးစပ်သူဖြစ်၍ လိုက်ပါ ချီးမြှောက်ပေးရ၏၊ ပဏ္ဍာသမဏ (နောက်ပါရဟန်း)အဖြစ် ဦးကောဝိဒလည်း ပါရ၏၊ ရွှာဟိုင်းသုသာန်သည် ဆရာတော် ငယ်စဉ်ကနေခဲ့ဖူးသော အနောက်ပြင် ဝိသုဒ္ဓါရုံတိုက်သစ်နှင့်နီး၏၊ ရေစက်ချ၍ အမျှဝေပြီးသောအခါ ပင့်သံဃာများအား ဘီလပ်ရည်ကပ်သည်၊ ပိုလျှံသော ဘီလပ်ရည်တို့ကိုလည်း နောက်ပါ ဘုန်းကြီးကျောင်းသားတို့အား တိုက်ကျွေး၏၊ ထိုအခါ ဂူကြိုဂူကြားတွင် ပြေးလွှားဆော့ကစားနေကြရာမှ ဘုန်းကြီးကျောင်းသားတို့သည် ပြေးလာကြ၍ သူ့ထက်ငါ အလုအယက်

တိုးဝှေ့သောက်နေကြတော့သည်၊ သူတို့အဖို့ တွေ့နေကျ စားကြောပင် ဖြစ်တော့သည်၊ ထို အခြင်းအရာကို ကြည့်၍ ဆရာတော်က ပြုံးနေ၏၊ မည်သို့ အာရုံတွင် ပေါ်ထင်လာသည် မသိ၊ အတန်ကြာသောအခါမှ ဆရာတော်က သူ့ဝမ်းတွင် ပြောချင်လာသော စကားလုံးတို့ကို မြိုမထားနိုင်၍ ဦးကောဝိဒ အား စကားစတော့သည်။

"ကောဝိဒရေ, ဟိုမှာ မြင်ရဲ့လား ဘုန်းကြီးကျောင်းသားတွေ ဘီလပ်ရည်ကို တိုးဝှေ့လုယက်သောက်နေကြတာ"

"မှန်ပါ, မြင်ပါအရှင်ဘုရား"

"အေး-အဲဒီအထဲက နောင်တစ်ချိန်မှာ တချို့က ဆရာတော်ကြီးတွေ ဖြစ်ပြီး စာတတ် ပေတတ်နှင့် အဂ္ဂမဟာပဏ္ဍိတတွေ ဖြစ်မလာဘူးလို့ မင်း ဆိုနိုင်မလား"

"မဆိုနိုင်ပါဘုရား, ဖြစ်ချင် ဖြစ်လာနိုင်ပါအရှင်ဘုရား"

"အေး, ဖြစ်ချင်ဖြစ်လာနိုင်ပါတယ် လုပ်မနေနဲ့, တို့လဲ ဟိုတုန်းက ဒီလိုပဲ ဒီနေရာမှာ ကျောင်းသားဘဝနှင့် တိုးဝှေ့ သောက်လာခဲ့တာပဲ"

ဤသို့ မိန့်ဆိုလိုက်တော့မှ ဦးကောဝိဒမှာ စောစောတုန်းက ဆရာတော် ပြုံးနေခြင်း၏ အကြောင်းကို သဘောပေါက်သွားရလေတော့၏။

ဆိုလိုသည်မှာ "ကြီးကျယ်ခြင်းသည် သေးငယ်ခြင်းမှ စရသည့် သဘော, အမြင့်သို့ ရောက်ဖို့ရာသည် အနိမ့်မှ တရွေ့ရွေ့ တက်ရသည့်သဘော" တို့ကို မေ့ပျောက် မထားဘဲ ထက်မြက် ငယ်ရွယ်သူများကို အထင် မသေးအပ်ကြောင်း ဖော်ပြလိုခြင်းဖြစ်ပေသည်။

## သာသနာတော်ကို အထင်သေးမခံနိုင် သာသနာတစ်ခေတ် ကြုံဖို့ မလွယ်ဘူး

ဆရာတော် အရှင်ဇနကာဘိဝံသက ထုံးစံအတိုင်း တပည့်ရဟန်းငယ်တို့အား တတွတ်တွတ် ဩဝါဒပေးနေသည်၊ "ဒီသာသနာတော်က လွယ်လွယ်ကလေးနှင့် ပေါ်လာရတာ မဟုတ်ဘူး၊ လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်းတောင် အနစ်နာခံပြီး ပါရမီတွေ ဖြည့်မှ ဘုရားဖြစ်လာရ, သာသနာပေါ်လာရတာ၊ ဘုရားတစ်ဆူဖြစ်ဖို့ ခဲယဉ်းတာပဲ။

ဒါကြောင့် ဒီသာသနာဟာ တန်ဖိုးကြီးမားတယ်၊ တန်ဖိုးကြီးမားတဲ့ ပစ္စည်းကို ရိုသေရမယ်၊ လေးစားရမယ်၊ တန်ဖိုးထားရမယ်၊ ဦးပဥ္စင်းတို့ ကိုရင်တို့ဟာ အခု တန်ဖိုးကြီးမားတဲ့ သာသနာတော်ထဲ ရောက်နေကြပြီ၊ သတိရှိကြပါ၊ တန်ဖိုးရှိမှန်း သိပါစေ၊ သီလလုံအောင် ထိန်းကြပါ။

တတိယသင်္ဂါယနာပွဲကြီးရဲ့ ခေါင်းဆောင် ထိပ်ခေါင်တင် အရှင်မဟာမောဂ္ဂလိပုတ္တတိဿဟာ ဗြဟ္မာ့ပြည်က ဆင်းလာတာပါ၊ တာဝန်နှင့်လာခဲ့ရသူပါ၊ ဒုတိယသင်္ဂါယနာတင်ပွဲအပြီး မထေရ်ကြီးတို့က "နောင်အနှစ်တစ်ရာလောက်ဆိုရင် သင်္ဂါယနာတင်ရဦးမှာပဲ" အဲဒီပွဲမှာ ခေါင်းဆောင်ဖြစ်နိုင်မည့် အစွမ်းရှိသူကို ရှာတဲ့အခါ လူ့ပြည် နတ်ပြည်မှာ မတွေ့ပါဘူး၊ ဗြဟ္မာ့ပြည်မှာ သွားတွေ့ကြတယ်။

"အို-အရှင်တိဿဗြဟ္မာကြီး... အသင်သည် သာသနာကို ပြုနိုင်စွမ်းရှိသူတစ်ယောက်ပါ၊ ဤဘုံက စုတေလျှင် အထက်ဘုံသို့ မတက်ပါနှင့်တော့၊ လူ့ပြည်ကို ဆင်း၍ လူသားအဖြစ်နှင့် သာသနာပြုပါ"လို့ တောင်းပန်ခဲ့ကြတယ်၊ အဲဒီအခါ ဗြဟ္မာကြီးက...

"အလို...ငါဟာ သာသနာကို ပြုနိုင်စွမ်းရှိသူတစ်ယောက် ဖြစ်သတဲ့"ဟု ဆိုကာ သူ့ကိုယ်သူ အလွန်အားရဝမ်းသာ ဖြစ်ရပါသတဲ့။

အဲဒီနောက် အထက် ဗြဟ္မာ့စည်းစိမ်ကို မယူတော့ဘဲ (ဗြဟ္မာ့စည်းစိမ်နှင့် လဲ၍) လူ့ပြည်မှာ လာပြီး သာသနာပြုခဲ့တာပါ၊ သာသနာပြုရမယ်ဆိုတဲ့ ဘဝကို မြတ်နိုးလို့ အထက် ဗြဟ္မာ့စည်းစိမ်ကိုတောင် မယူတော့ဘူး၊ ထားခဲ့တယ်၊ ဗြဟ္မာ့စည်းစိမ်နှင့် လဲပြီး သာသနာပြုလာတယ်။

အဲလို တန်ဖိုးရှိတဲ့ ပစ္စည်းကို တန်ဖိုးရှိမှန်း သိကြတယ်၊ ဦးပဥ္စင်းတို့ ကိုရင်တို့လည်း သိကြပါ၊ သာသနာကို အထင်သေး အမြင်သေးဖြစ်အောင် မလုပ်ကြပါနှင့်၊ ဗုဒ္ဓမြတ်စွာမှာ ဒီသာသနာ ဖြစ်လာဖို့ ခဲတောင့်ခဲယဉ်းကျင့်ခဲ့ရ၊ ပါရမီတွေ ဖြည့်ခဲ့ရတာပါ၊ တိသဗြဟ္မာကြီး ရတဲ့ အခွင့်အရေးကို အခု ဦးပဥ္စင်းတို့ ကိုရင်တို့ ရနေကြပြီ၊ ဘုရားစကားလိုက်နာသောအားဖြင့် သာသနာပြုကြပါ။

## မော်ကြည့်ခံဘဝမှ ငုံ့ကြည့်ခံဘဝရောက်

ဒီသာသနာတော်ကို စတင်တည်ထောင်တုန်းကတော့ လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်း ပါရမီတွေ ပိုင်ရှင် သဗ္ဗညုတဘုရားသခင်၊ အဲဒီနောက် တိုင်းပြည်ဦးကင် ရှင်ဘုရင် မင်းဧကရာဇ်များ၊ အိမ်ရှေ့စံများ၊ မင်းညီမင်းသားများ၊ ပညာရှိပဏ္ဍိတ်များ၊ သူဌေးသူကြွယ်များနှင့် ကုန်သည်ပွဲစား ဂုဏ်ရှိသိန်ရှိပုဂ္ဂိုလ်များချည်း ထမ်းဆောင်လာခဲ့ကြတာ၊ အစဦးပိုင်းက ဂုဏ်ရှိတဲ့ သာသနာတော်ကို ဂုဏ်ရှိတဲ့ပုဂ္ဂိုလ်များက ချီမ ပင့်မြှောက်ထားတယ် ဆိုတော့ သာသနာတော်ကို အားလုံးက မော်ပြီးကြည့်ကြရတဲ့ အခြေအနေနှင့် တင့်တယ်ခဲ့ရတယ်။

ဟော-အခုနောက်ပိုင်းကျတော့ ဒီသာသနာတော်ထဲ ဝင်လာတဲ့သူတွေက လူပေါင်းစုံ အမျိုးပေါင်းစုံ အကြောင်းအမျိုးမျိုးနှင့် ဝင်လာကြတာ၊ ဇာတ်ပေါင်းစုံပဲ၊ စုံချင်စုံပါစေ၊ သာသနာတော်ထဲမှာ သာသနာတော်နှင့်ထိုက်တန်အောင် နေကြ ထိုင်ကြ ကျင့်ကြရင် အထင်သေး အမြင်သေးဖြစ်ဖို့ အခြေအနေ မရှိဘူးပေါ့၊ အခုတော့ ကိုယ်သဘောနှင့် ကိုယ် ထင်သလို ကြမ်းကြလို့ ပရမ်းပတာနှင့် စည်းလွတ် ကမ်းလွတ်တွေ ဖြစ်လာကြတော့ လူကြီး လူကောင်းဆိုတဲ့သူတွေက သာသနာကို မော်မကြည့်တော့ဘဲ အထင်သေးတဲ့ မျက်လုံးနှင့် ငုံ့ကြည့်နေကြပြီ၊ ဒါကို ဘုန်းကြီးက မခံနိုင်ဘူး၊ ဒါဝန်ထမ်းသားတွေ ညံ့လာလို့ ဖြစ်ရတာပဲ။

"ဒါကြောင့် သာသနာတော်ကြီး ကျဆင်းလာတယ်ဆိုတာ သူ့ဟာသူ အလိုလို အကြောင်းမဲ့ ကျဆင်းလာတာ မဟုတ်ဘူး၊ သာသနာထဲ နေတဲ့သူတွေ ညံ့လာလို့ ကျလာတာပဲ၊ ထက်ထက်မြက်မြက်နှင့် ကျင့်ကြံသူတွေ စွမ်းစွမ်းတမံနှင့် အလုပ်လုပ်သူတွေ၊ အထက်တန်းကျကျ စိတ်ထားရှိတဲ့ သူတွေ လက်ထက်တုန်းက သာသနာတော်ကြီးဟာ အမြင့်တန်း ရောက်နေခဲ့တာပါပဲ၊ ဒီတော့ ကျတယ် တက်တယ်ဆိုတာ သာသနာ့ဝန်ထမ်းသားတွေ အပေါ်မှာ အများကြီး တည်နေတာပဲ"။

## အစစ အရာရာ ပြုပြင်ကြစမ်းပါ

"ဒါကြောင့် ဘုန်းကြီးက သတိပေးနေရတာ၊ တစ်သာသနာလုံးရှိ သာသာနာ့ဝန်ထမ်းသားတွေကို သတိပေးနေခဲ့တာ၊ "အားလုံး ပြုပြင်ကြပါ၊ စစ်ဘေးစစ်ဒဏ်ကြောင့် ဒီတိုင်းပြည်မှာ တိုင်းပြည်နှင့်တကွ ပြန်လည် ပြုပြင်ကြရမယ်၊ ပြုပြင်လျှင် ပြုပြင်သလို တက်လာနိုင်ပါသေးတယ်"လို့၊ ဘာတွေ ပြုပြင်ရမလဲဆိုရင်...၁။ ကိုယ်ကျင့်သီလတွေ ပထမဦးစွာ ပြုပြင်ကြရပါမယ်၊ ၂။ စိတ်နေစိတ်ထားတွေ၊ ၃။ အဝတ်အရုံတွေ၊ ၄။ စားပုံသောက်ပုံတွေကို ပြုပြင်ကြရမယ်၊ ၅။ အပြောအဆို အဆက်အဆံ ပြုပြင်ကြရမယ်၊ ၆။ နေပုံထိုင်ပုံတွေ ပြုပြင်ကြရမှာပဲ၊ ဒါလောက် ပြုပြင်လိုက်ရင်ပဲ အဆင့်အတန်းဟာ အတော်ကြီး မြင့်တက်သွားပါပြီ၊ သာသနာမှာ ကိုယ်ကျင့်သီလဝိနည်းဟာ အရေးအကြီးဆုံး၊ ပဓာန အကျဆုံးပါပဲ၊ အနိမ့်အမြင့် အမျိုးဇာတ်ပင် ပဓာနမဟုတ်သေးဘူး၊ ဝိနည်းတေဒင်ဘွဲ့ထူးရ ပထမသင်္ဂါယနာရဲ့ ဝိသဇ္ဇက အရှင်ဥပါလိမထေရ်ဟာ လူ့ဘဝတုန်းက မင်းညီမင်းသားတို့ရဲ့ အလုပ်အကျွေး ဆတ္တာသည်ပဲ၊ ဒါပေမယ့် ရဟန်းဘဝရောက်တော့ ဘုရားရှင်ထံမှ ဝိနည်းပိဋကတ်တွေကို

အပြည့်အဝသင်ယူပြီး အပြည့်အဝ ကျင့်သုံးလိုက်တော့ အားလုံး၏ကျက်သရေဆောင် တစ်သာသနာလုံးရဲ့ ထိပ်ခေါင်တင် ဖြစ်သွားတော့တာပဲ။

ဒါကြောင့် မင်းတို့ တစ်တွေကို ဘုန်းကြီးက ဝိနည်းကို ဦးစားပေး အလေးပေးပြီး သင်ပေးနေရတာ၊ ဝိနည်းကို သိပြီးရင်လဲ လက်တွေ့ ကျင့်သုံးကြပါ၊ ဝိနည်းမရှိလို့ သာသနာ ကျလာတာပဲ၊ ဝိနည်းကျင့်သုံးလာကြရင် သာသနာဟာ ပြန်တက်လာနိုင်သေးတာပဲ၊ အချုပ်ပြောရရင် "ရှေးတုန်းကလို ဝိနည်းသာသနာ ပြန်လည်ထွန်းကားလာအောင် ကျင့်သုံးကြပါ"လို့ တိုက်တွန်းလိုပါတယ်။

ပြီးတော့ သာသနာပြုပုဂ္ဂိုလ်ဆိုတာ စိတ်ထားလဲ ဖြူစင်ဖြောင့်မတ်ရမယ်၊ အဝတ်အစားကိုလဲ မြင်လိုက်ရုံနဲ့ ချပ်ချပ်ရပ်ရပ် ကြည်ညိုဖွယ် ရှိစေရမယ်၊ နိဂြောဓသာမဏေကလေးရဲ့ အဝတ်အရုံ ဣန္ဒြေသိက္ခာကို မြင်လိုက်ရရုံနဲ့ ကြည်ညိုသွားရတဲ့ အသောကမင်းကြီး၊ အရှင်အရဟံရဲ့ တည်ငြိမ်တဲ့ သိက္ခာ ပုံပန်းအသွင် အဝတ်အရုံကို မြင်ရရုံနှင့် ကြည်ညိုသွားရတဲ့ ပုဂံ အနော်ရထာမင်းများဟာ သာသနာတော်အတွက် ဘယ်လောက်များ အကျိုးများသွားသလဲ၊ အဲသလို အသွင်အပြင် ဖြစ်အောင် အကြိမ်ကြိမ်အထပ်ထပ် လေ့ကျင့်ယူရင် ရနိုင်တာပဲ၊ "လူမှာ အဝတ်, တောင်းမှာ အကွပ်"တဲ့၊ ဒါလဲ အရေးကြီးတာပဲ။

## သဘာဝကျ၍ ယဉ်ကျေးအောင်

"အစားအသောက်နှင့် ပတ်သက်ပြီး မြတ်စွာဘုရားက နေရာတော်တော်များများမှာ ဘောဇနေ မတ္တညုတာလို့ အတိုင်းအရှည်သိဖို့ သတိပေးချက်များစွာ ရှိပါတယ်၊ ဘုန်းကြီးတို့ သာသနာ့ဝန်ထမ်းသားတွေဟာ တော်တော် သတိထားဖို့ လိုပါတယ်၊ ကိုယ်ကျင့်သီလတို့, စိတ်နေစိတ်ထားတို့, အဝတ်အရုံတို့ဆိုတာ ကိုယ့်ကျောင်းတိုက် ကိုယ့်နေရာမှာ ကိုယ့်ချည်းဖြစ်နိုင်တဲ့ ကိစ္စပါ။

ဟောဒီ အစားအသောက်ကျတော့ (ပရပဋိဗဒ္ဓ) သူများနှင့် ဆက်စပ်လာပြီး ကိုယ့်ချည်းပဲ မဖြစ်နိုင်တော့ဘူး၊ ဒီအခါမှာ အတိုင်းအရှည်ကို သိရပါတယ်၊ အခြေအနေကို အကဲခတ်ရပါတယ်၊ အရာရာ သတိမလပ်စေရဘူး၊ အလှူခံတဲ့ နေရာမှာ အတိုင်းအရှည်ကို သိရသလို စားသောက်တဲ့ နေရာမှာလဲ အတိုင်းအရှည်ကို သိရပါတယ်။

ဒါနှင့်စပ်လို့ ကောဝိဒတို့... မင်းတို့ တစ်နေ့တုန်းက ဆွမ်းကျွေးပွဲမှာ ငါးပါးလုံး တစ်ပြိုင်နက်ကြီး စားပြီးတာဟာ သဘာဝမကျဘူး၊ ဒါ အဓိပ္ပာယ် မရှိပြန်ဘူး၊ မဖြစ်နိုင်ပါဘူး၊ အဲလို တစ်ပြိုင်နက်ကြီး ပြီးတော့ ဘာပြဿနာတက်လာသလဲဆိုရင် လက်ဆေးဖို့ ရေခွက်မအားလပ်ခြင်းပြဿနာ ပေါ်လာတယ်၊ သူတို့အိမ်တွေမှာ အလေ့က ငါးပါးတစ်ပွဲမှာ ရေချိုင့် ထွေးခံတို့က ဟိုဘက် ဒီဘက် တစ်စုံစီသာ ထားတတ်ကြတာ၊ တစ်ပြိုင်နက်ကြီးပြီးတော့ လက်ဆေးဖို့, ရေသောက်ဖို့ မအားလို့ စောင့်နေရရော၊ အမှန်က တစ်ပါးနှင့်တစ်ပါး သိပ်မကွာခြားဘဲ မရှေးမနှောင်းသာ ပြီးသင့်တာ"။

ဆရာတော်သည် ပစ္စည်းရှိသော တိုက်တစ်တိုက်မှ တစ်နေ့တုန်းက ဆွမ်းကျွေးပွဲတွင် အဆင်မပြေ သဘာဝမကျသည်ကို သတိရ၍ ပြန်လည် ဩဝါဒ ပေးနေခြင်း ဖြစ်၏၊ ယခင်တစ်ပတ်က ပြောခဲ့ဖူးသည်၊ "ဆွမ်းစားမြန်တဲ့သူက အစောကြီးပြီးနေ၍ နှေးတဲ့သူက အကြာကြီးကြာမှ ပြီးသဖြင့် ကြည့်မကောင်းဘူး၊ တစ်မျိုးကြီး ဖြစ်တယ်၊ တစ်ပါးနှင့် တစ်ပါး စောင့်ပြီး မနှေးလွန်း မမြန်လွန်း စားပါမှပေါ့"ဟူသော မိန့်ကြားချက်အရ ပြင်လိုက်သော အခါ တစ်ပြိုင်နက်ကြီး ပြီးနေပြန်သည်။

ဤမျှ သေးမွှားသော အချက်ကလေးကိုပင် သဘာဝ ကျရေးအတွက် ဆရာတော်က လိုလားတော်မူ၏၊ "စားပြီးသားဆွမ်းပန်းကန်ပြားမှာ ဆွမ်းလုံးတွေနှင့် ဟင်းစက်တွေနှင့် ပေပွမနေစေ နှင့်"ဟု တစ်ချိန်က သတိပေးထားဖူး၏၊ သို့ဖြစ်၍ ပန်းကန်ပြားထဲ၌ ဆွမ်းလုံးတစ်လုံးမျှမကျန်အောင်, ဟင်းစက် တစ်စက်မျှ မကျန်အောင် ဖြူဖွေးလျက်ပင်နေအောင် ပြုမိပြန်သောအခါ "မင်းတို့ဟာ ဘယ်မှာ သဘာဝကျလိမ့်မလဲ၊ စားပြီးတဲ့ ပန်းကန်ပြားဆိုရင် စားပြီးတဲ့ဟန်အတိုင်း ဟင်းစက်ကလေးတွေ နှစ်စက် သုံးစက် လေးစက်, ဆွမ်းလုံးကလေးတွေ

နှစ်လုံး သုံးလုံး လေးလုံးလောက်တော့ ရှိရမှာပေါ့၊ ကြည့်မကောင်း မြင်မကောင်း အများကြီး ပေပွ မနေစေနဲ့လို့သာ ပြောခဲ့တာပါ၊ အခုတော့ မင်းတို့ဟာ စားပြီးသား ပန်းကန်ပြား ဖြစ်လျက်နဲ့ ဖြူဖွေး နေအောင် လျှာနဲ့လျက်ထားသလို ဖြစ်နေပြန်တော့ အတ္တနဲ့ တူနေ…, မဟန်သေးပါဘူးကွာ"။

## မယဉ်ကျေးကြ၍ အထင်သေးခံရ

ဆရာတော်ကား သဘာဝဆိုက်၍ ယဉ်ကျေးသည်ကို လိုလားတော်မူ၏၊ အားလုံးအချုပ်မှာ သာသနာကို အထင်သေးမှာ စိုးသည်၊ ထို့ကြောင့် တပည့်ငယ်များကို အသေးစိတ် ပြုပြင်နေခြင်း ဖြစ်သည်၊ တတွတ်တွတ်လည်း ဆုံးမတတ်သည်၊ တတွတ်တွတ် ဆုံးမလျက်နှင့် မလိုက်နာသူကိုကား ဆရာတော်က အရပ်ထဲမှာ ဆွမ်းစား မလိုက်ပါစေလို့။

"ဘုန်းကြီးက အဲဒီ လူမျိုးကို မစားစေချင်လို့တော့ မဟုတ်ပါဘူး၊ သာသနာကို အထင်သေးသွားမှာ စိုးလို့ပါ၊ အလိုက်သိတတ်တဲ့ သူကိုပဲ (ဆွမ်းညွှန်း ဘုန်းကြီးက) ဆွမ်းစားထည့်ပါ၊ အလိုက်သိ အကင်းပါးတဲ့သူကိုတော့ ထပ်ကာ ထပ်ကာ ဖြစ်ချင်ဖြစ်ပါစေ, ထည့်ပါ၊ အလိုက် မသိတတ်သူ, ပြောလို့ မရနိုင်သူကိုတော့ ကျောင်းမှာပဲ စားနေရစ်ပစေ"။

ဤသို့ပင် မှာကြားတတ်၏၊ အဘယ်ကြောင့်ဆိုသော် သာသနာကို အထက်တန်းစားဆိုသောသူများက အထင်သေးသွားမည် စိုးသောကြောင့် ဖြစ်သည်၊ ဤကိစ္စနှင့် ပတ်သက်၍ အောက်ပါအတိုင်း ဆက်လက် မိန့်ကြားနေပြန်၏။

"အသောကမင်းကြီး နန်းတက်ပြီးနောက် သူ၏ ခမည်းတော်လက်ထက်ကလို စဉ်ဆက်မပြတ် နန်းတော်ထက်မှာ တိတ္ထိပေါင်း ခြောက်သောင်းကျော်ကို နေ့စဉ် ဆွမ်းကျွေးလာခဲ့တယ်၊ ဒါပေမယ့် စားကြပုံ သောက်ကြပုံ ဣန္ဒြေမရသည်တို့ကို မြင်ရ၍ မင်းကြီး ဘဝင်မကျ ဖြစ်နေသည်ကို သူတို့ မရိပ်မိကြ။

အဲဒီနောက်… နိဂြောဓ သာမဏေကလေးနှင့် သံဃာတော်များရဲ့ ဣန္ဒြေသိက္ခာကို ဖူးတွေ့ရတဲ့ အခါ မင်းကြီးစေတနာ တစ်မျိုးတစ်ဖုံ ပြောင်းသွားတော့တယ်၊ ကြည်ညိုမှု လိုင်းပြောင်းသွားတယ် ဆိုရမှာပေါ့၊ အဲဒီအချိန်က စပြီး တိတ္ထိခြောက်သောင်းကျော်ကို နန်းတော်နှင့် အဆက်ဖြတ်တော့တာပဲ၊ သူတို့ရဲ့ ဣန္ဒြေသိက္ခာ မစောင့်စည်းမှုတွေကြောင့်ပေါ့၊ ဘုန်းကြီးက ဒီအချက်ကလေးတွေကို စာချ ရင်း သတိထားသွားတာ, အမှတ်တမဲ့နှင့် အနက်ထင်ရုံသာ ချပေးတာ မဟုတ်ဘူး၊ စာချပြီးရင်လဲ စာရဲ့ သဘောကို ကောက်ချက်ယူတယ်၊ ပြီးတော့ လက်တွေ့နှင့် ဟပ်, ပေါင်းစပ်ပြီး ကျင့်သုံးတယ်၊ ပြုပြင်တယ်၊ ကျက်သရေရှိအောင် လုပ်တယ်။

တိတ္ထိတို့ရဲ့ စည်းကမ်းပရမ်းပတာ ဖြစ်မှု, ဣန္ဒြေ မစောင့်စည်းမှုကြောင့် ဘယ်လောက် နစ်နာဆုံးရှုံးကုန်ကြရသလဲလို့။" …

## အောက်တန်းစား အမူအကျင့်တွေ

"တို့ ဘုန်းကြီးတွေထဲမှာလဲ အဲလို ကိုယ်တော်တွေ တော်တော်များများ တွေ့ရတယ်၊ စာပေကိုလဲ သတိမထား, ယဉ်ကျေးသူများရဲ့ အမူအကျင့်ကိုလဲ အတုမယူ၊ ကြည်ညိုသူ ဒကာ ဒကာမတို့က သဒ္ဓါဗလဝနှင့် ဆွမ်းပင့်ကျွေးကြတဲ့အခါ ဣန္ဒြေ မရ (လောလုပ္ပတဏှာ) လျှပ်ပေါ်လောလီတဲ့ အမူအရာတွေနှင့် အငန်းမရ စားကြ သောက်ကြတယ်၊ သူ့ကြောင့် သာသနာတော်ကို ဘယ်လောက် အထင်သေးသွားတယ်ဆိုတာ သူမသိဘူး။

တချို့က သူများတွေ ဆွမ်းစားနေတုန်း ရှိသေး၊ သလိပ်ချွဲခန်းတွေ အသံမြည်အောင် ဟပ်တတ်ကြတယ်၊ မဆင်ခြင်ကြဘူး၊ အလွန်ရိုင်းရာကျတာပေါ့၊ အဲဒီ သလိပ်ချွဲခန်းတွေကို ထွေးခံထဲ ထွေးထည့်တဲ့ အခါမှာလဲ ထွေးခံနှင့် ပါးစပ်နှင့် အဝေးကြီး, အမြင့်ကြီးကနေ ထွေးထည့်တော့ ဘေးလူတွေက ကိုယ့်ရဲ့ သလိပ်ချွဲခန်းတွေကို မြင်ကုန်ရော၊ တကယ်ဆို ကပ်ထွေးပါလား၊ ဒါမှ မဟုတ် ယပ်နှင့်ကွယ်ထား, လက်နှင့် ကာထားပြီးမှ ထွေးပါလား"

"ပြီးတော့ ရှိသေးတယ်, ဆွမ်းစားပြီးတယ်ဆိုရင်ပဲ၊ မီးခြစ်ပုံးထဲက မီးခြစ်ဆံကို ထုတ်ယူပြီး မုန့်ပဲ သရေစာ လက်ဖက်ရည် အချိုပွဲကြီးကို ရှေ့မှာ ထားလို့ သွားကြားထိုးနေတတ်ကြတယ်၊ တချို့က ကိုယ့်မှာပါလာတဲ့ အပ်ချိတ်ကြီးနှင့် သွားကြားထိုး နေတတ်ကြတယ်၊ သူ့ပါးစပ်ကြီး အဟောင်းသားကို ဘေးက မြင်နေရတတ်တယ်၊ သူကသာ မမြင်တာ၊ သူ့ပါးစပ်တွင်းက အညစ်အကြေးတွေကို ဘေးလူတွေအား ဖော်ပြနေသလို ဖြစ်တယ်၊ အလွန် ရိုင်းရာ ကျတယ်။

သွားကြားထိုးပြီးတော့ စနစ်တကျ ထွေးခံထဲကို မထွေးချင်ဘူး၊ နီးရာ ပြတင်းပေါက်ကို လှမ်းပြီး ထွေးတတ်ကြတယ်၊ ဒီတော့ သူ့ပါးစပ်ထဲက ဇရုတ်သီးဖတ်ကြီးက သံတိုင်ကို သွားကပ်ကရော၊ အလွန် အောက်တန်းကျတဲ့ အမူအကျင့်ပဲ၊ ဆိုင်ရာ ဒကာ ဒကာမများကရော ခံနိုင်ပါ့မလား, ကြည်ညိုနိုင်ပါ့မလား၊ ဒါမျိုးတွေ မြင်တော့ သိပ်အထင်သေးခံကြရတာပေါ့။

ယဉ်ကျေးတဲ့ နိုင်ငံကြီးသားတွေကဆိုရင် မနေသာလို့ သွားကြားထိုးရတောင် လက်တစ်ဖက်က လက်ဝါးကလေးနှင့် ပါးစပ်ကို အုပ်လို့ ဖုံးလို့ ကာလို့ ဘေးလူ မမြင်စေရဘူး၊ အဲလို ကွာခြားကြတာ။"

## ယုတ်ညံ့တဲ့အလေ့ကို ရှောင်ရှားပါ

"တချို့က လုပ်တတ်ကြသေးတယ်၊ စားပြီးတဲ့အခါ ရေနွေးနှင့် ဒါမှမဟုတ် ရေအေးနှင့် ပါးစပ် လုတ်ကျင်းပြီး လူရှေ့သူရှေ့မှာ ပါးစပ်ထဲ လက်ညှိုးကြီး ထိုးသွင်းပြီး သွားတိုက်နေတတ်ကြတယ်၊ အလွန်ရိုင်းတာပဲ၊ ကိုယ့်ကျောင်း ကိုယ်ပြန်ရောက်မှ တိုက်ပါတော့လား၊ ဘာလို့ မစောင့်နိုင်ရတာလဲ၊ တချို့ကတော့ အကျင့်တစ်မျိုး, ရေနွေးသောက် အပြီးမှာ ရေနွေးကို ပလုတ်ပလောင်းကြီးငုံထားပြီး "ကလုပ် ကလုပ် ကလုပ်"နှင့်နေအောင် ပါးစပ်ထဲမှာ မွှေနှောက်ပလုတ်ကျင်းနေတယ်၊ "ထွေးပစ်မည်လား"လို့ ဘေးကထင်နေတုန်း "ဂွတ်"ခနဲနေအောင် မျိုချလိုက်ကရော၊ သိပ်ရိုင်းတဲ့ အကျင့်ပဲ၊ ဘေးလူတွေက အပြစ်ပြောရင် "ဘာဖြစ်လဲတဲ့, ကိုယ့်ပါးစပ်ထဲကဟာ ကိုယ်မရွံပါဘူး"တဲ့။

သူမရွံပေမယ့် သူဟာ သိပ်အောက်တန်းကျနေတာ သူမသိပါဘူး၊ သာသနာမှာလဲ ထိခိုက်သေး"



**သာသနာတော်ကြီးကို ဘုန်းကြီးတို့ရဲ့ ကိုရင်တွေ ဦးပဉ္ဇင်းတွေကြောင့်တော့**

"သွားတုတပ်တဲ့ လူတွေလဲ သတိထားကြရမှာပဲ၊ စားသောက်နေတုန်း သွားက နေရာ ရွေ့ရွေ့သွားတော့ လူရှေ့ သူရှေ့မှာ လက်ကြီးနှင့် သွားတုကို သွားသွားပြီး ကိုင်ရရော၊ ပြီးတော့ ဒီလက်ကြီးနှင့် ဟင်းခွက်ကို ဆွမ်းကို သွားပြီး နှိုက်တော့ ကိုင်တော့ ဘေးက လူတွေက ဘယ်မှာ ကျေနပ်နိုင်တော့မလဲ၊ ပြီးတော့ စားပြီးလျှင် ပြီးချင်း ဒီသွားတုကြီးတွေကို ဖြုတ်ဖြုတ်ပြီး လူရှေ့သူရှေ့မှာ ဆေးရော, ကိုယ့်နေရာ ကိုယ်ရောက်မှ ဆေးပါတော့လား"။

ဆရာတော် အရှင်ဇနကာဘိဝံသကား... သူတွေ့ဖူး ကြုံဖူးသမျှတွေကို ဖော်ထုတ်၍ ပြောပြနေ၏၊ မိမိ၏ တပည့်များ ဤသို့ မပြုမိအောင် ဩဝါဒပေးနေသည်၊ ဆိုခဲ့ပြီး ပုဂ္ဂိုလ်များကြောင့် လူကြီးလူကောင်းဆိုသူတို့၏ အထင်သေး အမြင်သေး ခံရသည့်အတွက် သာသနာဘက်က နစ်နာလှသည်၊ အခံရခက်လှသည်၊ ထို့ကြောင့် ခံပြင်းသမျှ ဖွင့်ဟ၍ ဆရာတော်က သတိပေးနေခြင်း ဖြစ်သည်။

ဟုတ်ပါသည်၊ အမြင့်မြတ်ဆုံး, အယဉ်ကျေးဆုံး, အကြီးကျယ်ဆုံးဆိုသော ပါရမီသခင် ဘုရားရှင်၏ သာသနာကို ဘာသာလဝါပုဂ္ဂိုလ်တို့၏ အမူအကျင့်က ဖုံးလွှမ်း သေးသိမ် မှေးမှိန်စေသည်ကို ကြောင့်ကြမဲ့ ကြည့်၍ နေမည်လော၊ မနေသင့်ပေ။

သာသနာ့ဝန်ထမ်းသားတိုင်း... တာဝန်ရှိစွာ ပြုပြင်ရ ကာကွယ်ရမည်သာတည်း။

## အဆိုအမိန့်နောက်မှ လက်တွေ့ကျင့်သုံးမှုလည်း ပါမှ
## အသိနှင့်အကျင့် တွဲသုံးဖို့ လိုအပ်

* ဘုရားလောင်း ဘုရင့်ပုရောဟိတ်ကြီးနှင့် ဗေဒင်သုံးပုံဆောင် ဥဒ္ဒါလရသေ့ကြီးတို့ တစ်နေ့တွင် တွေ့ဆုံကြ၏၊ စပ်မိစပ်ရာ စကားပြောကြရာ ဘုရားလောင်း ပုရောဟိတ်ကြီးက "ဗေဒင်စာတွေကို ပါးစပ်နှင့် ရွတ်ဆိုနေလို့ကတော့ အကျိုးမများလှသေးပါဘူး၊ လက်တွေ့ ကျင့်သုံးလိုက်နာမှု မပါဘဲနှင့်ကတော့ ဗေဒင် သုံးပုံမကလို့ ဗေဒင် အပုံ တစ်ထောင် ရွတ်နေလည်း ဝဋ်ဒုက္ခမှ မလွတ်မြောက်နိုင်သေးပါဘူး"ဟု ပြောလေသည်၊ ဤစကားကို ယူ၍ ဆရာတော်က မကြာခဏ ဩဝါဒပေးတတ်၏။



"အထင်သေး မခံနိုင်ဘူး, ဝတ်ပုံ စားပုံကအစ အချိုးကျရပါမယ်"

* ဇာတက(ပကိဏ္ဏက နိပါတ)အဋ္ဌကထာ-၂၉၀။ (သဟဿဝေဒါပိ တံ အဓိစ္စ, ဒုက္ခာ န ပမောစရေ စရဏံ အပတွာ။)

"လူတွေမှာလဲ အဲဒီအတိုင်းပါပဲ၊ ငါးပါးသီလ ကို သူသူငါငါ ဆိုတတ်နေလို့ ဗါးစပ်က လွယ် လွယ်ပင် ဆောက်တည်ကြပေမယ့် တကယ် အပြည့်အဝ ကျင့်သုံးသလားလို့ဆိုတော့ မဟုတ် ကြပါဘူး၊ (သုမင်္ဂလ ဒုမင်္ဂလ ကိစ္စတွေမှာ) အပေါင်းအဖော်တွေနှင့်မို့ ရောဆိုလိုက်တာ၊ ကျင့်ကြံစောင့်စည်းမှုက ပါမလာဘူး။

အဲလိုဆိုရင် ပုရောဟိတ်ကြီး ပြောသလို အကြိမ် တစ်ထောင်ပင်ဆိုဆို ဆိုရုံနှင့်တော့ ဝဋ်ဒုက္ခမှ မလွတ်မြောက်နိုင်ပါဘူးလို့ ပြောရ မှာပဲ"။

အကြောင်းစပ်လာတိုင်း အထပ်ထပ် သတိပေး တတ်သည်။

"ဟုတ်တယ်, ပုရောဟိတ်ကြီးပြောတဲ့စကား ဟာ သိပ်မှန်တယ်၊ အခု ဖြစ်နေကြတာက စာသင်သားတွေဟာ စာသင်နေကြပေမယ့် အကျင့်က တွဲဖက် ပါမလာဘူး၊ ရွတ်လိုက်ရ, အံလိုက်ရတာကဖြင့် လေနာတွေ ထအောင် တကျော်ကျော်၊ အဲဒီစာအတိုင်း ကျင့်ကြံရမယ် ဆိုတဲ့ကိစ္စကျတော့ ပါမလာဘူး၊ ကျန်ရစ်တယ်၊ လက်တွေ့ကျင့်သုံးမှု ပါမလာဘူး၊ ဒါတွေကို ပြောတာ ပုရောဟိတ်ကြီးက"

## စည်းကမ်းကို ရှေ့တန်းတင်၍

ဤသို့လျှင် အဆိုတခြား အကျင့်တခြား, အဆို အမိန့်ရှိသလောက် အကျင့်က နောက်မလိုက်ဘဲ ဖြစ်နေကြသည်ကို အားမရနိုင်၍ ဆရာတော်က ခဏ ခဏ မိန့်ဟနေတတ်ခြင်း ဖြစ်ပေသည်။

ဆရာတော်သည်ကား သူတစ်ပါးတို့အား ညွှန် ကြားသလို ကိုယ်တိုင်လည်း လိုက်နာတတ်ပါ၏၊ တွေ့ကြုံရသော ကိစ္စကလေးများကို "ကြီးသည် ငယ်သည်က ပဓာန မဟုတ်, လက်တွေ့ကျကျ လိုက်နာကျင့်သုံးဖို့က ပဓာန"ဟု ဆိုကာ အရာရာ တွင် စည်းကမ်းကို ရှေ့တန်းတင်တတ်ပါသည်။

တစ်ခါတစ်ရံ ငယ်ဆရာရင်း သာသနာပိုင် မြောင်းမြဆရာတော်ဘုရားကြီးက အမရပူရ မဟာ ဂန္ဓာရုံကျောင်းတိုက်သို့ ကြွကြွလာတော်မူတတ်၏၊ ညပိုင်းတွင် တပည့်ဖြစ်သူ အရှင်ဇနကာဘိဝံသနှင့် သာသနာရေး ဘာသာရေး အကြောင်းတို့ကို ဆွေးနွေးတိုင်ပင်တတ်ကြသည်၊ ည ကိုးနာရီထိုး၍ အချက်ပေးတုံးကလေးခေါက်လျှင် ဆရာတော်ကြီး တို့လည်း စကားပြောမှုကို ရပ်၍ နေရာမှ ထကြ တော့၏၊ မပြီးသေးသော ကိစ္စတို့ကို နောက်နေ့မှ ဆက်လက်ပြောတတ်ကြသည်။

ကျောင်းတိုက်၌ စည်းကမ်းရှိသည်မှာ ည ကိုး နာရီထိုးလျှင် အချက်ပေးတုံးကလေး ခေါက်ရ၏၊ ထိုအခါ သံဃာများအားလုံး စာအံ စာပြန် ရပ်ကြ၍ တိတ်ဆိတ်ငြိမ်သက်စွာ ဘာဝနာတရား ပွားများ ကြရသည်။

ဤစည်းကမ်းကို ဆရာတော်ကြီးတို့လည်း လေးစား လိုက်နာကြခြင်း ဖြစ်၏၊ "ငါတို့ လူကြီးပဲ" ဟူသော အခွင့်အရေးမျိုးကို မယူကြ၊ အဆိုနှင့် ကျင့်ဝတ် တစ်ထပ်တည်း ဖြစ်အောင် လိုက်နာကြ ခြင်း ဖြစ်သည်။

## ဒကာကြီး နှစ်ကြိမ်အမိခံရဖူး

ည ကိုးနာရီထိုးလျှင် အချက်ပေးတုံးကလေး ခေါက်သလို နံနက်စောစော လေးနာရီထိုးလျှင် လည်း အချက်ပေးတုံးကြီးခေါက်၍ အိပ်ရာမှ ထကြ ရမြဲဖြစ်သည်၊ ဤစည်းကမ်းကို ကျောင်းတိုက်တွင်းရှိ ကြီးငယ်မဟူ မည်သူမဆို အားလုံး လိုက်နာကြရ၏၊ ဤစည်းကမ်းအတိုင်း လိုက်နာ/မလိုက်နာကို တစ်ခါတစ်ခါ ဆရာတော်က ကျောင်းတိုက်တွင်းသို့ လှည့်ပတ်၍ ကြည့်တတ် အကဲခတ်တတ်သည်။

ကပ္ပိယကာရက ဒကာကြီးကျော်မှာ လူကြီးဖြစ်၍ အိပ်မပျော်နိုင်ဘဲ မျက်လုံးကြောင်နေသဖြင့် ည ၁၁ နာရီအထိ မအိပ်ဘဲ အပြင်ထွက်ထိုင်နေမိ၏၊ ဆရာတော် တွေ့သွားသဖြင့် "ဟာ-ဒကာကြီးကလဲ"ဟု မြည်တွန်သွားဖူးသည်၊ တစ်ခါတွင်လည်း ညပိုင်းက အိပ်ရေးပျက်နေသဖြင့် မနက် လေးနာရီ တုံးကြီး ခေါက်သည်အထိ မထမိဘဲ အိပ်ရာထဲမှာ လှဲနေမိ၏၊ "ကိုယ့်အိပ်ရာထဲ ကိုယ်လှဲနေတာ ဘယ်သူသိတာမှတ်လို့" ဟုလည်း အောက်မေ့နေမိသည်ဟူ၏၊ သို့သော် ဆရာတော် လှည့်ပတ် ကြည့်ခိုက်တွင် မိသွားပြန်သဖြင့် "ဟာ-ဒကာကြီးကလဲ"ဟု မြည်တွန်သွားပြန်လေသည်။

ဤသို့လျှင် "ဆရာတော် နှစ်ကြိမ်မိဖူးကတည်းက နောက်တော့ မလွန်ကျူးမိအောင် ကြိုးစားနေခဲ့ပါတယ်"ဟူ၍ ဒကာကြီးကျော်က ပြန်လည်ပြောပြဖူးပါသည်။

## အဆင့်အလိုက် ဒဏ်ပေးပုံ

ဆရာတော်ကား...ကပ္ပိယကာရက ဒကာကြီး ကျော်မို့သာ လူကြီးဖြစ်၍ "ဟာ-ဒကာကြီးကလဲ" ဟူ၍မျှသာ မြည်တွန်သွားခြင်း ဖြစ်သည်၊ ရဟန်း သာမဏေ ဖိုးသူတော်ကလေးများသာ ဆိုလျှင် သူ့အဆင့်အလိုက် ဒဏ်ပေးမြဲဖြစ်၏၊ ဖိုးသူတော် ငယ်ငယ်ကလေးများအပေါ် အပြစ် တွေ့လျှင် "လာခဲ့၊ လာခဲ့"ဟု ခေါ်ကာ ကျောင်းတိုက်အတွင်း၌ အနှံ့အပြား ရှိတတ်သော ခွေးချေးပုံတို့ကို အကျုံးခိုင်းတတ်သည်။

သာမဏေငယ်များနှင့် သာမဏေကြီးများဆိုလျှင် မြက်ရှင်း ထင်းပေါက် အမှိုက်ကျုံး သစ်ပင်လှဲမြေဖို့ စသည့် ဒဏ်ပေးတတ်၏၊ ဦးပဉ္စင်းများ ဖြစ်လျှင်ကား ရေခပ်ခြင်း ထင်းဖြတ်ခြင်း တံမြက်လှည်းခြင်း အုတ်ခဲ သယ်ခြင်း စသည် ပြုရတတ်၏။

စာချဘုန်းကြီးများ ဖြစ်ပါမူ..."အံမယ် - စာချဘုန်းကြီးက ဒီလိုပဲ အပြစ်ထဲပါရသလား"ဟု ဆိုကာ ဘုရားအာရုံခံတန်ဆောင်းထဲသို့ ခေါ်သွားပြီး "နာရီဝက်ခန့် ဘုရားအာရုံပြုရမယ်"ဟု အမိန့်ချကာ ဒဏ်ပေးတတ်ပါသည်။

တစ်ခါတလေ ဘုရားရှေ့မှာ ကိုယ့်လို ဒဏ်ပေးခံရတဲ့ ပုဂ္ဂိုလ်တွေ အများကြီး စုမိနေသည်ကိုလည်း တွေ့ရတတ်၏။

ဆရာတော့် ဒဏ်ကား ဗြဟ္မဒဏ်ဟူသကဲ့သို့ မြင့်မြတ်သော ဒဏ်ဖြစ်၍ ရှက်စရာမဟုတ်ဘဲ တစ်ပါးနှင့်တစ်ပါး တွေ့ကြသောအခါ ပြုံးမိကြတော့သည်။

ဤသို့လျှင် မဟာဂန္ဓာရုံတိုက်၌ နေသူဟူသမျှ ဒဏ်ပေးခံရခြင်းမှ လွတ်သူ ရှားလှ၏၊ အမှန်ကား စည်းမျဉ်းစည်းကမ်းနှင့် လိုက်နာကျင့်သုံးမှု ကပ်လျက် ဟပ်လျက် တစ်ထပ်တည်း ရှိစေလို၍ ဆရာတော်က ကြပ်မတ်နေခြင်း ဖြစ်လေသည်။

## မိမိစည်းကမ်းနှင့်ဘုရားရှင်စည်းကမ်း

ဆရာတော် အရှင်ဇနကာဘိဝံသက မိမိရေးဆွဲသော စည်းကမ်းကို လေးစားသလို ဘုရားရှင် ကိုယ်တော်မြတ် ပညတ်အပ်သော ဝိနည်းစည်းကမ်းကိုလည်း တလေးတစား ဦးထိပ်ပန်ဆင်ပါသည်၊ တစ်နေ့သော နံနက်ခင်း ဩဝါဒတွင် ဤသို့ အမိန့်ရှိ၏။

"ဆွမ်းစားကျောင်းရဲ့မြောက်ဘက်က ကျောင်းဘုန်းကြီးနေဖို့ အဆောင်ကလေးဆွယ်မယ်ဆိုတော့ ဒကာမောင်ကိုက "အဲဒီကုန်ကျစရိတ်ကို တပည့်တော်က လှူပါ့မယ်"တဲ့ လျှောက်တယ်။"

"ကုန်ကျစရိတ်"ဆိုတော့ ဒါဟာ ငွေကို ပြောတာပဲ၊ ဒီတော့ ဘုန်းကြီးတို့က"အင်း"လို့ မလိုက်ကောင်းတော့ဘူး၊ လိုက်ရင် ငွေကို အလှူခံရာ ရောက်သွားမယ်၊ ရောက်ရင် မအပ်မရာတွေ ဖြစ်ကုန်တော့မှာပေါ့"။

"အဲဒီ အဆောင်ကလေးကို တပည့်တော်က တာဝန်ယူပါ့မယ်" ဆိုရင်တော့ ငွေရယ် ဘာရယ် လျှောက်တာ မဟုတ်လို့ "အင်း"လို့ လိုက်ကောင်းပါရဲ့"ဟူ၍ မိန့်သည်။

## လက်စသတ်တော့ အလှူပွဲစားနဲ့ကိုး

ဆရာတော်က ဤသို့ပင် ဝိနည်းနှင့်ပတ်သက်သော ဝေါဟာရအသုံးအနှုန်းကလေးများကို သတိထား ဆင်ခြင်တော်မူ၏၊ လေးစားလိုက်နာတော်မူ၏၊ မလေးစား မလိုက်နာ၍ မဖြစ်ပေ၊ "ဘုရားသာသနာတော်ကြီး၏ ဂုဏ်ရောင် မမှေးမှိန်အောင် ဆောင်ရွက်နေပါသည်"ဆိုပြီး ဘုရားမကြိုက်သော အလုပ်တို့ကို မရှောင်ကြဉ်ပါက အဘယ်သို့လျှင် ဘုရားရှင်၏ အလိုဆန္ဒကို ပြည့်ဝစေနိုင်ပါအံ့နည်း၊ အဘယ်သို့လျှင် သာသနာပြုသည်, အဘယ်သို့လျှင် သာသနာ့ဝန်ကို ထမ်းဆောင်သည်ဟု ဆိုနိုင်ပါအံ့နည်း။ ဤကဲ့သို့သော ဆရာတော့်ထံသို့ တစ်နေ့တွင် ကျောင်းဒကာ ဒကာသောင်းညဏ်က ဆရာတော့်ဖို့ သောက်ရေအိုးနှင့်တကွ သောက်ရေအိုးစင်ကလေး လှလှကို ဈေးထဲက ဝယ်လာခဲ့၏၊ ဆရာတော့်ထံသို့ ယူလာသည်၊ ထိုအခါ ဆရာတော်က...

"ဒကာသောင်းညဏ်...အဲဒါ ဘာလုပ်မလို့လဲ"

"မှန်ပါ, ဆရာတော့်ကို လှူမလို့ပါဘုရား"

"ဒီလောက် လှလှပပလေး ဘုန်းကြီးသုံးလို့ မတော်ပါဘူး၊ ဒကာသောင်းညဏ်ရဲ့ ကျောင်းကြီးပြီးတော့ အဲဒီ လှေကားအဆင်းလောက်မှာ ထား, အများသုံးရတာပေါ့, ယူသွား"

"မဟုတ်ပါဘူးဘုရား, ဆရာတော့် ကျောင်းကလေးပေါ်မှာ ထားဖို့ ရည်မှန်းလာတာပါဘုရား၊ ဆရာတော့်မှာ သောက်ရေတကောင်းကလေး ကွဲသွားတယ်ဆိုလို့"

"ဘယ်သူက ပြောလို့လဲ"

"ဦးကြီးကျော်က ပြောပါတယ်ဘုရား၊ (ကပ္ပိယကာရက ဒကာကြီးဦးကျော်ဝင်းကို ဆိုလိုသည်။) တစ်နေ့တုန်းက ဈေးထဲမှာ တွေ့ကြတော့ "ဆရာတော့်အတွက် ဘာများ အလိုရှိပုံပေါ်သလဲ"လို့ တပည့်တော်က မေးပါတယ်၊ ဒီတော့ ဦးကြီးကျော်က"တခြားဘာမှတော့လိုမယ် မထင်ပါဘူး၊ တစ်နေ့တုန်းကတော့ သုံးစွဲနေကျ ရေတကောင်းကလေး လွတ်ကျသွားတယ်လို့ သိရတယ်၊ အဲဒါကလေးများ လိုမလားလို့ ပြောပါတယ်ဘုရား"

"ဩော်လက်စသတ်တော့ အလှူပွဲစားနဲ့ကိုး, ကဲ ဒကာသောင်းညဏ်, ကျောင်းမှာ မထားခဲ့နှင့်တော့ အိမ်ပြန်ယူသွား"

ဒကာသောင်းညဏ်ကားကြည့်တိကြောင်တောင် ဖြစ်၍ နေရတော့သည်၊ သူ့ဇနီး ဒေါ်ခင်လှလည်း ဘာမျှမသိ ဘာလျှောက်ရမည်ဟု နားမလည်၊ ဤဆရာတော်ကြီးနှင့် ဆက်ဆံရသည်မှာ ခက်လှပါဘိခြင်း, ဆရာတော်အတွက် ရည်မှန်းပြီး လှူဒါန်းဖို့ ဝယ်လာသည်ကို ယခု ပြန်ယူသွားခိုင်းနေပြီ၊ "စောစောကမှ ကျောင်းတိုက်ထဲ တစ်နေရာမှာ ထားဖို့ အခွင့်ရသေး၏၊ ယခုတော့ "အလှူပွဲစားနှင့်ကိုး" ဆိုပြီးခါမှ လုံးလုံးထားခွင့် မရတော့ဘူး, ဘာဖြစ်လို့များပါလိမ့်" သူတို့ တွေးမရ ဖြစ်နေကြသည်။

ဤဇနီးမောင်နှံနှင့် ဤဆရာတော်ကြီး အရှင်ဇနကာဘိဝံသတို့ ဆက်ဆံကြသည်မှာ သိပ်ကြီးမကြာလှသေးပါ၊ သူတို့တစ်တွေ ဆရာတော်၏ တပည့်များ ဖြစ်လာကြပုံမှာလည်း စိတ်ဝင်စားဖွယ်ကောင်းလှပါသည်။

## ရှေးအကြောင်းရှိ၍ ယခု အဆက်ဖြစ်လာကြသလော

တစ်နေ့တွင် ဒကာသောင်းညဏ်တို့ ဇနီးမောင်နှံက သားငယ်ကလေးများ မမယ်မရွယ်တွေကို ရှင်ပြုပေးကြ၏၊ သူတို့ မန္တလေးမြို့တွင် လှပေ့ ညွန့်ပေ့ ကောင်းပေ့ဆိုသော အဆင်အပြင်တို့ကို ဈေးကြီးကြီးပေးငှားပြီး မဏ္ဍပ်ကြီးကို ဟည်းနေအောင် ဆင်ပြင်ထားသည်၊ နာမည်ကြီး ဆိုင်းအဖွဲ့ကိုလည်း ငှားထား၏၊ ညှော်ခံဖို့ အငြိမ့်ပွဲများလည်း ပါသည်။

လူတွေကိုလည်း အများကြီး ဖိတ်ထား၏၊ နာမည်ကြီးဆရာတော်များဖြင့် ညတရားပွဲများလည်း ကျင်းပသေးသည်၊ တရားနာလာသူတို့ကို ကောက်ညှင်းပေါင်းဖြင့် ညှော်ခံရာတွင်ပင် တစ်ညလျှင် ၆ တင်း, ၇ တင်းမျှ ပေါင်း၍ ကျွေးရ၏၊ အလှူပွဲကြီး မတိုင်မီ လေးငါးရက်မျှ ကြိုတင်ကျင်းပနေကြသည်။



သာသနာပြုမယ့်ပုဂ္ဂိုလ်ဟာ
အဝတ်အစားကို မြင်လိုက်ရုံနဲ့
ချပ်ချပ်ရပ်ရပ်
ကြည်ညိုဖွယ်ရှိစေရမယ်



နိဂြောဓသာမဏေကလေးရဲ့
အဝတ်အရုံ ဣန္ဒြေသိက္ခာကို
မြင်လိုက်ရုံနဲ့
ကြည်ညိုသွားရတဲ့
အသောကမင်းကြီးလို



အဲသလို အသွင်အပြင်ဖြစ်အောင် အကြိမ်ကြိမ်အထပ်ထပ် လေ့ကျင့်ယူရင် ရနိုင်တာပဲ

ဤပွဲကြီးကား နာမည်ကြီး ဆရာတော် သံဃာတော် အပါး ၅၀ ပင့်ထား၍ တစ်ပါးလျှင် ၅၀၀ ကျော် ၆၀၀ နီးပါးခန့်တန်ဖိုးမျှလှူဖို့ ပြင်ဆင်ထားသည်၊ အမရပူရ မဟာဂန္ဓာရုံ ကျောင်းတိုက်မှ ရဟန်းလောင်း တစ်ပါးကို တောင်း၍ ရဟန်းခံလည်း ပါလိုက်သေး၏၊ ဤရှင်ပြုပွဲကြီးတွင် ဆရာတော် အရှင်ဇနကာဘိဝံသကိုလည်း နောက်ဆုံးပွဲပြီးနေ့မှ တရားဟော ရေစက်ချပေးဖို့ရန် ပင့်လျှောက်ထားကြ၏၊ ဆရာတော်က အမိန့်ရှိသည်၊ "အချိန်ကြာကြာကြီး ဟောတဲ့ တရားဟောမျိုးတော့ မဟုတ်ဘူး၊ တရားပြော ရေစက်ချပေ့ါ၊ အားလုံးမှ တစ်နာရီလောက်ပဲ"ဟု မိန့်၍ ခွင့်ပြုတော်မူသည်။

## အခမ်းအနားတွေ ငွေကုန်များလွန်း

အလှူပွဲပြီး နောက်ဆုံးနေ့မှာ ဆရာတော် အရှင်ဇနကာဘိဝံသ ကြွလာသည်၊ ရောက်သည်ဆိုလျှင် ပင် အဆင်အပြင် အခမ်းအနား များပြားကြီးကျယ်နေသည်ကို မြင်၍ ဘဝင်ကျဟန် မတူတော့ပေ၊ ဆရာတော်က ပကာသနအလှူဒါနတို့ကို မကြာခဏ အပြစ်ပြောတော်မူလေ့ရှိ၏၊ "တိုင်းပြည်မှာ ငွေတွေ ကုန်လွန်းတယ်"ဟုလည်း ညည်းတော်မူတတ်သည်။

"လူတွေဘက် သာသနာဘက်မှာ ကုန်သင့်မှ ကုန်ပါစေ၊ ဒီက လူတွေ သုံးသမျှ သူများတိုင်းပြည်ကို အခွန်ဘဏ္ဍာတွေ ဆက်နေရတာပဲ၊ လူတွေဘက်မှာ ဆိုလျှင် နှစ်စဉ် သင်္ကြန်ပွဲတို့, နှစ်ပတ်လည်ပွဲတို့ တစ်နှစ်တစ်နှစ် မနည်းဘူး၊ တစ်ဦးချင်း အနေနှင့် မင်္ဂလာပွဲတို့, လက်ထပ်ပွဲတို့, မွေးနေ့ပွဲတို့ မနည်းဘူး၊ ကုန်လိုက်ကြတာ။

ရဟန်းသံဃာတွေ ဘက်မှာ, ဘာသာရေး သာသနာရေးဘက်မှာရော ဝါဆိုပွဲတို့ ကထိန်ပွဲတို့ ရှင်ပြုပွဲတို့ ရဟန်းခံပွဲတို့ မနည်းဘူး ကုန်လိုက်ကြတာ။"

"ကုန်သင့်တာထက် ပိုသုံးပြီး အဓိပ္ပာယ်မဲ့ ဖြုန်းလွန်းကြရင် လူညွန့်တုံးကြတော့မပေ့ါ၊ တိုင်းပြည်နာလန်မထူနိုင် ဖြစ်ကြတော့မပေ့ါ၊ မြန်မာပြည်မှာရှိတဲ့လူတိုင်း ကိုယ်စီကိုယ်င စနစ်ရှိကြမှ ကိုယ့်လူမျိုး ကိုယ့်တိုင်းပြည် မပူမပင် တင့်တင့်တယ်တယ် ဖြစ်နိုင်ကြတော့မပေ့ါ၊ အမှန်က ဒီပွဲတွေအားလုံးဟာ ဒီလောက် ကုန်ဖို့ မလိုပါဘူး"ဟူ၍ ဟောနေကျ အတိုင်း ဟောပါတော့သည်။

ထို့နောက် ဆက်လက်၍ ဟောနေပြန်၏၊ "တတ်နိုင်သူက တတ်နိုင်လို့ ပုံကြီးချဲ့ကြတာကို အင်အားမရှိတဲ့သူတွေကလဲ "ရှင်ပြုဆိုတာ ဒီလိုလုပ်မှ ဖြစ်တယ်"လို့ ထင်ပြီး အမီလိုက်ကြရော၊ ဒီတော့ မွဲကုန်ရော၊ ကျေးရွာဒေသတွေမှာ အဲဒါမျိုးတွေ အများကြီးရှိတယ်၊ ရှေ့ဆောင်ရမယ့် ဘုန်းကြီးတွေကလဲ လမ်းမှန်ရောက်အောင် ပြောမပေးကြဘူး၊ မေ့လိုက်နေကြတယ်"

ဆရာတော်သည် အများ လုပ်နေကြပုံတွေကို အားမရနိုင်တိုင်း အကုန်လုံးကို သိမ်းရုံး၍ ဟောနေသည်၊ ရင်ထဲရှိသမျှ သွန်ချနေသည်။

## ရာဟုလာကလေး ရှင်ပြုပွဲ

ဗုဒ္ဓမြတ်စွာရဲ့ သားတော် ရာဟုလာကလေး ရှင်ပြုပွဲကိုပဲ ကြည့်ကြပါဦး၊ လုပ်မယ်ဆိုရင် တိုင်းတုန်အောင် လုပ်နိုင်တာပေ့ါ၊ ဖခင်ကြီးက စကြာမင်းကြီးဖြစ်မယ့်သူ၊ တောထွက် တရားကျင့်လို့ အခုလို ဘုရားဖြစ်တော့ တစ်ကမ္ဘာလုံးရဲ့ အသာဆုံး ပုဂ္ဂိုလ်ကြီး, မိခင်ကလဲ အမျိုးသမီးများအားလုံးရဲ့ အထွတ်မြတ်ဆုံး ထိပ်ခေါင်တင်, ရာဟုလာကလေး ကိုယ်တိုင်ကလဲ စကြာမင်းလောင်းကလေး, အဘိုးအဘွားများဖြစ်ကြတဲ့ သုဒ္ဓေါဒနမင်းကြီးတို့, မိထွေးတော် ဂေါတမီတို့ကလဲ ယခုလက်ရှိ အာဏာပိုင်တွေ၊ စည်းစိမ်ဥစ္စာတွေ ဆိုတာတော့ မပြောနှင့်တော့။

ဒီတော့ ဘုရားကိုယ်တော်မြတ်ကသာ "လုပ်မယ်"လို့ ဆိုလိုက်ရင် ဘာပြောကောင်းမလဲ၊ တစ်ကမ္ဘာလုံး သိမ့်သိမ့်တုန်သွားအောင် လုပ်နိုင်တာပေ့ါ၊ ဒါပေမယ့် မလုပ်ဘူး။

"ဟော-ကြည့်စမ်း-ဘယ်လို စီစဉ်သလဲဆိုတော့ ဘုရားကိုယ်တော်မြတ်ကြီးက အရှင်သာရိပုတ္တရာ ထံ ရာဟုလာကလေးကို အပ်, "ခေါင်းရိတ်ပြီး သရဏဂုံ ပေးလိုက်ပါ"လို့ ခိုင်းလိုက်တာပဲ၊ ဒါ ရှင်ပြု ပွဲ ပြီးရော"

ဆရာတော်ကား တရားဟောနေခြင်း ဖြစ်၏၊ သို့သော် ပရိသတ်အချို့ကမူ ဆရာတော့်ကို အိမ် ဦးခန်း ဖခင်ကြီးလို မြည်တွန်တောက်တီးနေသည် ဟု ထင်ကောင်း ထင်ကြပေမည်၊ ထိုတွင် အလျှ ဒကာ နှင့် အသိုက်အဝန်း အချို့တို့က ဆရာတော် ဟောပြောနေသော အချက်အလက်တို့ကို ကျေနပ် ကြဟန်မတူ၊ မျက်နှာအမူအရာတို့ကို ကြည့်သော အားဖြင့် သိနိုင်ကြပေသည်။

သို့သော်လည်း လေးစားအပ်သော ဆရာတော် ကြီးဖြစ်၍ ထုံးစံအတိုင်း ဆုံးအောင် နာယူကြပါ သည်၊ နောက်ပိုင်း၌ အသီတိနိပါတ် ဇာတ်တော်လာ "ရွှေဟင်္သာမင်းဇာတ်"ကို ပုံစံထုတ်၍ ဟောပြတော် မူ၏။

## ရွှေဟင်္သာမင်းဇာတ်လမ်းနှင့် မှတ်တမ်းအကျဉ်း

*"ရှေးတုန်းက ဗာရာဏသီပြည်၌ သံယမမင်း ကြီးနှင့် ခေမာမိဖုရားကြီးတို့ နန်းစံနေကြတယ်၊ တစ်နေ့တော့ မိဖုရားကြီး အိပ်မက်ထဲမှာ ရွှေဟင်္သာ မင်းက ပလ္လင်ပေါ်လာ တရားဟောနေတယ်လို့ မက်တယ်၊ နောက်တရား မဆုံးမီ ရွှေဟင်္သာမင်းက ကောင်းကင်ပျံတက်သွားလို့ တရား မဝလိုက်ဘဲ ဖြစ်ပြီး လန့်နိုးလာရော။

ဒါနဲ့ ဆက်လက်ပြီး တရားနာလိုတဲ့ "ချင်ခြင်း" ဖြစ်ပါတယ်လို့ ဘုရင်ကြီးကို ပူဆာတော့ ဘုရင်ကြီး ကလဲ ရွှေဟင်္သာကို ရအောင် ရှာဖွေပေးပါ့မယ်လို့ ယုယစွာ ဖြေသိမ့်ရှာပါတယ်၊ မိဖုရားရဲ့ အလိုကို လိုက်လျောချင်လို့ "ရှာပေးပါမယ်" တာဝန်ခံလိုက် ပေမယ့် တကယ်တော့ ဘုရင်ကြီးကိုယ်တိုင်လဲ ရွှေဟင်္သာကို မမြင်ဖူးပါဘူး၊ ရှိသလား မရှိဘူးလား လို့ ကွဲကွဲပြားပြား မသိပါဘူးတဲ့။

ဒါနဲ့ တိုင်းပြည်အတွင်းက မုဆိုးတွေကို ခေါ်ယူ စည်းဝေးပေးရတော့တာပေါ့, ဘယ်မှာရှိသလဲလို့၊ ဒီတော့ မုဆိုးတွေက "ဟိမဝန္တာမှာ ရှိတယ်လို့ ကြားဖူးပါတယ် အရှင်မင်းကြီး"

ဒီအခြေရရင်ပဲ ဘုရင်ကြီးက အားတက်လာပြီး "သွားဖမ်းပေးပါ" လို့ ဆိုပါတယ်။

## နည်းပရိယာယ်ဖြင့် ဖမ်းမှ ဖြစ်မည်

မုဆိုးတွေက "ဒီလို အလျားအနံ ကျယ်ပြောတဲ့ ဟိမဝန္တာတစ်ကြောမှာ လိုက်ဖမ်းနေလို့ မလွယ်ပါ ဘူး, ပရိယာယ်နှင့်ဖမ်းမှ ရပါမယ်"တဲ့၊ ဘယ်လို ပရိယာယ်လဲလို့ မေးပြန်တော့ "ဒီမြို့တော်ကြီးရဲ့ ခပ်လှမ်းလှမ်းမှာ အလွန်ကျယ်ဝန်းတဲ့ ရေကန်ကြီး တစ်ကန် တူးရပါမယ်တဲ့၊ ရေတွေ အပြည့်သွင်း, ကြာမျိုးငါးပါး စုံအောင်စိုက်, သာယာတဲ့ကန်ကြီး ဖြစ်အောင်လုပ်, ဘေးပတ်ပတ်လည်မှာ သလေး စပါးခင်းတွေ ဖြစ်နေအောင် စိုက်ပြီးတော့ ... ဒီကန်ကြီးကိုလဲ "ဘေးမဲ့ကန်ကြီး"လို့ ဆိုင်းဘုတ်တပ် ကြွေးကြော်ထားရပါမယ်"တဲ့။

အဲဒီအခါမှာ ငှက်တွေ မျိုးစုံ ကျလာလိမ့်မယ်, နောက်တော့ ရွှေဟင်္သာတွေပါ ပါလာကြလိမ့်မယ် တဲ့။

အဲဒီအခါမှာ ကျော့ကွင်းနှင့် ထောင်ဖမ်းဖို့ အကြံဉာဏ်ပေးတော့ ဘုရင်ကြီးကလည်း ဒီအတိုင်း ပဲ စီမံကြဖို့ အမိန့်တော်မှတ်ပါတယ်။

---

* ဇာတ်အဋ္ဌကထာ (အသီတိနိပါတ်) မဟာဟံသဇာတ် ၃၇၇။

## ရွှေဟင်္သာမင်းနှင့်စစ်သူကြီး သုမုခ

အဲဒီတုန်းက ဘုရားလောင်း ဟင်္သာမင်းဟာ ဟင်္သာကိုးသောင်း အခြံအရံနှင့် ဟိမဝန္တာမှာ နေပါတယ်၊ ငှက်တွေရဲ့ တစ်ဆင့်စကား တစ်ဆင့်နားနှင့် ဘေးမဲ့ကန်ကြီးအကြောင်းကိုလည်း ကြားကြပါတယ်၊ သလေးစပါးတောနှင့် ရေချိုတွေပေါတဲ့ အဲဒီကန်ကြီးကို "သွားပါရစေ"လို့ ငယ်သားတွေက တောင်းပန်ကြတော့ ဟင်္သာမင်းကြီးက အကြိမ်ကြိမ်တားပါတယ်၊ "လူတွေနှင့် နီးတဲ့ အရပ်ဟာ ဘေးရန်သိပ်မကင်းဘူး"လို့ ပြောပြီး တားတယ်၊ တားပေမယ့် သွားလိုတဲ့ ဆန္ဒတွေက မဲများကြတော့ သူဟာ အနေမသာဘူး, လိုက်လျောရရော။

အဲလိုနဲ့ ရေကန်ကြီးကို ရောက်လို့ ရက်မကြာမီပဲ ဟင်္သာမင်းကြီးဟာ ကျော့ကွင်းမှာ မိတော့တာပဲ၊ ခြေထောက်တစ်ဖက် မိနေပြီ၊ မိမှန်းသိရင်ပဲ တစ်အားကုန် ရုန်းကြည့်ပါတယ်၊ ကျော့ကွင်းမပြတ်ဘူး၊ အရေတွေ ပြတ်ကုန်တယ်၊ နောက်တစ်ခါ ရုန်းကြည့်တော့ အသားတွေ ပြတ်ကုန်တယ်၊ နောက်တစ်ခါ ရုန်းပြန်တော့ အကြောတွေပါ ပြတ်ကုန်တော့တယ်၊ စပ်ရှားပြင်းထန် အရိုးခိုက်အောင် နာကျင်တဲ့ ဝေဒနာတွေ ခံနေရပါပြီ၊ နောက်တစ်ခါ ရုန်းရင်တော့ အရိုးတွေ ပြတ်ပြီး ခြေထောက်ပါ ထက်ပိုင်းကျိုးဖို့ပဲ၊ "ခေါင်းဆောင်တို့ဆိုတာ ခြေလက်အင်္ဂါ ချို့ယွင်းလို့ မတော်ဘူး"လို့ သတိရပြီး မရုန်းဘဲနေလိုက်တယ်၊ နာကျင်တဲ့ ဝေဒနာက တော့ ပြင်းထန်လှပါပြီ။

အော်လိုက်ရင်လဲ ငယ်သားတွေ လန့်ပျံကုန်လို့ အစာမဝဘဲ အားနည်းပြီး ခရီးဆုံးအောင် မပျံနိုင်ဘဲ ဒုက္ခရောက်ကြမယ်၊ အဲလို ငံ့ညှာပြီး အားလုံး စားပြီးလောက်အောင် ဟန်မပျက်နေပါတယ်၊ ဝေဒနာကတော့ အခံခက်လှပါပြီ၊ အားလုံး စားသောက်ပြီးပြီဆိုတာ သိတော့မှ ရွှေဟင်္သာကြီးက နာကျင်တဲ့အသံနှင့် တအားကုန် အော်လိုက်တော့ အားလုံး ဟင်္သာကိုးသောင်းဟာ လန့်ပျံကုန်တော့ တာပဲ။

## ခေါင်းဆောင်တို့ရဲ့စိတ်ထားဆိုတာ

စစ်သူကြီး သုမုခလဲ ရောယောင်ပြီး ပျံမိတာပဲ၊ နောက်တော့မှ အုပ်စုထဲမှာ ရွှေဟင်္သာမင်းကြီး မပါတာကို သိတော့မှ ပြန်ပြေးလာခဲ့တယ်၊ ဒီတော့ ရွှေဟင်္သာမင်းကြီးက "ဒီနား မလာခဲ့နဲ့, ဒီနား မလာခဲ့နဲ့, ဘေးရန်ရှိတယ်, လွတ်ရာပြေး, လွတ်ရာပြေး, သူများတွေ လွတ်ရာပြေးကုန်ကြပြီမဟုတ်လား"လို့ ဆီးပြောတယ်။

ကဲ-ဒကာ ဒကာမတို့ ဒီနေရာမှာပဲ နည်းနည်းရပ်ပြီးတော့ ဘုန်းကြီးက ကောက်ချက်ချပြပါမယ်၊ အခု ခေါင်းဆောင်ကြီးဖြစ်တဲ့ ရွှေဟင်္သာမင်းကြီးရဲ့ စိတ်ထားဟာ ဘယ်လောက်မွန်မြတ်သလဲ၊ ကြည့်ကြစမ်း, ငယ်သားတွေရဲ့အပေါ် ငံ့ညှာတယ်၊ လူတွေနှင့် နီးတဲ့အရပ်ဟာ ဘေးရန် သိပ်မကင်းဘူးဆိုတာ ခန့်မှန်းမိလို့ မသွားချင်ပေမယ့် ငယ်သားတွေရဲ့ ဆန္ဒကို လိုက်လျောခဲ့တယ်၊ ကျော့ကွင်းမှာ မိပြန်တော့လဲ ငယ်သားတွေ အစာမစားဘဲ ပျံကုန်မှာစိုးလို့ ဝေဒနာကို အောင့်အည်းသည်းခံနေရှာတယ်။

ကြုံလာတဲ့ ဘေးရန်ကို လွတ်အောင် မကြိုးစားဘဲ နေတာတော့ မဟုတ်ပါဘူး၊ ကြိုးစား ကြည့်ပါသေးတယ်၊ နောက်မှ "ခေါင်းဆောင်ဆိုတာ အင်္ဂါ ခြေလက် ချို့ယွင်းလို့ မတော်ဘူး" ဒါကို သတိရလို့ လက်လျှော့လိုက်တာ။

## အရေးတဲ့ဆိုရင် ဒီလိုမှ တန်ဖိုးရှိ

ပြီးတော့ အများက ထွက်ပြေးကုန်ကြပေမယ့် စစ်သူကြီး သုမုခကတော့ အရဲစွန့်ပြီး ပြန်လာတယ်၊ အရေးတဲ့ဆို ဒီလိုမှပေါ့၊ သေမကွာ ရှင်မကွဲ အမြဲဆိုတာ၊ ဒီတော့ ခေါင်းဆောင်ကြီးကလဲ ငံ့ငံ့ညှာညှာနှင့်

"ဒီနား မလာနဲ့၊ ဒီနား မလာနဲ့၊ ဘေးရန်ရှိတယ်၊ လွှတ်ရာပြေး"လို့ ဆိုရှာတယ်၊ ဒီတော့ စစ်သူကြီးက ဘာပြောတယ်မှတ်တုံး...

"အို-ကျွန်ုပ်မပြေးပါဘူး၊ ကျွန်ုပ်ထွက်ပြေးပြေး၊ မပြေးပြေး သေဘေးဆိုတာ ဘယ်မှာပဲ ပုန်းပုန်း မလွတ်နိုင်ဘူး၊ သေထိုက်ရင် သေပါစေ၊ ဒါပေမယ့် မသေထိုက်ရင်လဲ မသေအောင်တော့ ကြိုးစားရမှာပဲ"တဲ့။

ကဲ-ဘယ်လောက် စစ်သူကြီးပီသသလဲ၊ တရားသဘောတွေလဲ ပါတယ်၊ မှန်လဲ မှန်တယ်၊ ရဲရင့်သတ္တိလဲ ရှိတယ်၊ သူ့အရှင်သခင့်အပေါ် မေတ္တာရေ သစ္စာရေ ရှိတယ်။

အဲဒီလိုနဲ့ ... မုဆိုးကြီးက လေးတွေ မြားတွေ တကားကားနှင့် ကြောက်စရာကြီး ပြေးလာတော့ စစ်သူကြီးဟာ ရဲရင့်စွာနဲ့ ရှေ့က လာရပ်တော့တာပဲ၊ "အို-မုဆိုးကြီးတဲ့၊ အခုမိနေတဲ့ ရွှေဟင်္သာကြီးဟာ သာမန် မဟုတ်ပါဘူး၊ ဟင်္သာ ကိုးသောင်းရဲ့ ခေါင်းဆောင်ပါ၊ ကိုယ်ကျင့်သီလလဲ ပြည့်စုံပါတယ်၊ ဉာဏ်ပညာလဲ ရှိပါတယ်၊ မသတ်သင့်ပါဘူး"တဲ့။

အရေးကြုံလျှင် သတ္တိရှိဖို့လိုအပ်တယ်၊ သူပြောတဲ့ ဂုဏ်ပုဒ်တွေထဲမှာ "ကိုယ်ကျင့်သီလ"ဆိုတာ ပါတယ်၊ တန်ဖိုးတစ်ရပ်ပဲ၊ ပြီးတော့ "အကယ်၍ သတ်ချင်ရင်လဲ ကျွန်ုပ်ကို သတ်ပါ၊ အသားကို ဟင်း လုပ်ချင်ရင်လဲ ကျွန်ုပ်ကို ချက်ပါ၊ အရှင်လတ်လတ် ရောင်းပြီး ပိုက်ဆံလိုချင်ရင်လဲ ကျွန်ုပ်ကိုပဲ ရောင်း ပါ၊ ဟင်္သာမင်းကြီးကို ပြန်လွှတ်သင့်ပါတယ်"တဲ့၊ ရဲရဲပဲ ဝင်ပြောတယ်။

ဒီတော့ မုဆိုးကြီးကလဲ "ဩော်-လူ့လောကမှာ တောင် ဒီလို သစ္စာတို့ မေတ္တာတို့၊ မြဲမြဲတဲ့ သံယောဇဉ်တို့ဆိုတာ နည်းပါးလှဘိခြင်း၊ အခု သူတို့မှာ တိရစ္ဆာန်တွေ ဖြစ်ပါလျက် ဒီ သူတော်ကောင်း လက္ခဏာတွေ ပြည့်ဝကြပေတယ်"လို့ ကိုယ်ချင်းစာ စိတ်တွေ တဖွားဖွားဝင်လာတယ်၊ အဲဒီနောက်တော့ အဖမ်းခိုင်းလိုက်တဲ့ ဘုရင်ကြီးက "ငါ့အား ပေးချင်တဲ့ အပြစ်ဒဏ် ပေးရော"ဆိုပြီး ဟင်္သာနှစ်စီးလုံးကို လွှတ်ပစ်လိုက်တော့တာပဲ။

ဒကာ ဒကာမတို့ အခုလို တစ်ဦးနှင့်တစ်ဦး ငဲ့ညှာစိတ်တွေ ဝင်နေကြတာဟာ အကြောင်း ရှိတယ်၊ သူတို့တစ်တွေဟာ ပါရမီဖြည့်ဖက်တွေ၊ ဘဝ သံသရာထဲမှာ မကြာ မကြာ တွေ့နေရတဲ့သူတွေ၊ လူချင်းမသိကြပေမယ့် သွေးချင်း သိကြ၊ ဓာတ် သဘာဝချင်း သိကြတယ်။

## တစ်ဦးနှင့်တစ်ဦး ညှာ၍ ကရုဏာသက်ရှာကြ

မုဆိုးကြီးက လွှတ်ပေးလိုက်လို့ လွတ်လပ်ခွင့် ရကာမှ "ဘယ်သူက အဖမ်းခိုင်းတာလဲ"လို့ စစ်သူကြီးက စပ်စုနေပြန်တယ်၊ ဒီတော့ မုဆိုးကြီးက မိဖုရားကြီး အိပ်မက် မက်သည်ကစပြီး ဘုရင်ကြီး က သူ့အား ဖမ်းဖို့ တာဝန်ပေးသည့်တိုင်အောင် ပြန်ပြောတော့ စစ်သူကြီးက "ဩော်-ဒီလိုဆိုရင်၊ အောင်မြင်ပါက သင့်မှာ ဆုလာဘ်တွေ ရနိုင်တာပဲ၊ အခုလို ဖမ်းမိပါလျက် ပြန်လွှတ်ပစ်တာကတော့ သင့်ကို ကြီးလေးတဲ့ အပြစ်ဒဏ်ပေးနိုင်တယ်၊ ကဲ- ကျွန်ုပ်တို့ကို ဘုရင့်ထံ ပို့ပါလို့ ပြောနေပြန်တော့တယ်။

ဒီလို စစ်သူကြီး စကားကြောရှည်နေတာကို ရွှေဟင်္သာမင်းကြီးက သိပ် သဘောမကျလှဘူး၊ ဒီတော့ မုဆိုးကြီးက..."အို-အသင်တို့ ဘုရင့်ထံ မသွားချင်ကြနဲ့၊ ဘုရင်ဆိုတာ မပြောနိုင်ဘူး၊ အာဏာပိုင်တယ်၊ စိတ်နဲ့မထင်ရင် သတ်ချင် သတ် ပစ်မှာ"လို့ စိုးရိမ်နေပြန်တယ်။

"အို-မုဆိုးကြီး၊ မပူပါနဲ့၊ ပို့သာ ပို့ပေးပါ"လို့ အကြိမ်ကြိမ်ပြောနေတဲ့အတွက် မုဆိုးကြီးက ပို့ပေး တော့ ဘုရင့်ထံကို ရောက်လာကြပါတယ်၊ ဘုရင် ကြီးကလဲ အားရ၊ မိဖုရားကြီးကလဲ ဝမ်းသာဖြစ်ရ ပါတယ်၊ မုဆိုးကြီးလဲ ဆုလာဘ်တွေ များစွာရသွား ပါတယ်၊ မုဆိုးကြီးက ဘုရင့်ထံ ဟင်္သာနှစ်စီးကို အပ်နှံတဲ့အခါ ဟင်္သာတို့၏ ဂုဏ်ပုဒ်တွေကိုပါ ပြော ပြီး အပ်နှံပါတယ်၊ ဘုရင်ကြီးက "စစ်သူကြီး သုမုခ စကားပြော ကောင်းတယ်"ဆိုလို့ ကြားချင်နေပြီ၊ စစ်သူကြီးကလဲ စကားမပြော တုဏှိဘော လုပ်နေ တော့၊ ဘုရင်ကြီးက "ဘယ့်နှယ်လဲ စစ်သူကြီး၊ ပရိသတ်ထဲရောက်လို့ ကြောက်ဒူးတုန်နေတာလား" လို့ မခံချင်အောင် စပေးတယ်။

၅၄၄

## တရားနာချင်လို့ ဖမ်းရခြင်းပါ

စစ်သူကြီးက "မကြောက်ပါဘူး၊ မတုန်ပါဘူး၊ ပြောချင်စိတ်တွေ ကုန်နေလို့"ဆိုပြီး စကားကို ဖြတ်ထားတော့ "ဘာလို့ ပြောချင်စိတ်တွေ ကုန်ရပါသလဲ"လို့ မေးရတော့တာပေါ့၊ ဒီတော့မှ စစ်သူကြီးက "လိမ်ညာနေတဲ့ ပရိသတ်ကြီးမို့ ပြောချင်စိတ်တွေ ကုန်နေပါတယ်"လို့ အချက်ပိုင်ပိုင် ပြောပစ်လိုက်တယ်။

ဒီတော့ ဘုရင်ကြီးက "ကျွန်ုပ်တို့ကို ဘာ့ကြောင့် လိမ်ညာနေတဲ့သူတွေလို့ စွပ်စွဲရပါသလဲ"လို့ ထပ်တွန့်လာရင်ပဲ "အရှင်မင်းကြီး၊ သတိရှိတော်မူပါ၊ ကိုယ့်အလုပ်ကို ပြန်စဉ်းစားတော်မူပါ၊ အစားအသောက်တွေလဲ ပေါများအောင် လုပ်ထားပါတယ်၊ ပြီးတော့ "ဘေးမဲ့ကန်ကြီး"လို့လဲ ကြေညာထားပါတယ်၊ အခု ဘယ်မှာ ဘေးမဲ့ဟုတ်လို့လဲ"လို့ မိမိရရ ပြောလိုက်တော့ ဘုရင်ကြီးလဲ ပြုံးစိစိ လုပ်နေတယ်၊ သူ့ဘက်က ဟုတ်နေတာကိုး။

နောက်တော့မှ "အို...စစ်သူကြီးသုမုခ၊ အသင်တို့ကို အခုလို ဖမ်းလိုက်ရတာဟာ သတ်ဖို့ အသားစားဖို့ဖမ်းတာ မဟုတ်ပါဘူး၊ ပညာရှိတယ်ကြားလို့ တရားနာချင်လို့ ဉပါယ်တံမျဉ်နှင့် ဖမ်းရခြင်းပါ၊ သည်းခံတော်မူကြပါ"လို့ ဘုရင်ကြီးက တောင်းပန်ရှာတယ်။

နောက်တော့ဖြင့် ဘုရင်ကြီးကိုယ်တိုင် ဟင်္သာနှစ်စီးတို့ကို ယုယုယယနှင့် ပြုစုလို့၊ စားဖွယ်သောက်ဖွယ်တွေကျွေးလို့၊ ရေချိုတွေပေးလို့ စိတ်ကြေအေးမှုဖြစ်ကြပါတယ်၊ အဲဒီနောက်ပိုင်းမှာ ဋ္ဌေဟင်္သာမင်းကြီးက မိဖုရားကြီးနှင့်တကွ တစ်နန်းတော်လုံးကို တရားတွေ ဟောလို့ သဘောတွေကျ ကျေနပ်မှုတွေဖြစ်ကြရပါသတဲ့၊ ဘုရင်ကြီးလဲ ငါးပါးသီလ တည်သွားရပါသတဲ့။

ဟောတဲ့ တရားတွေကလဲ ကျင့်သုံးဖို့၊ စာနာဖို့၊ တိုင်းသူပြည်သားတွေ အပေါ်မှာ ငဲ့ညှာဖို့၊ ကိုယ်ကျင့်သိက္ခာတွေ ပြည့်ဝဖို့ချည်းပါပဲတဲ့။

အဲလို တရားတွေကို အားရပါးရ နာပြီးမှ ဘုရင်ကြီးက ဋ္ဌေဟင်္သာမင်းကြီးကို ခေါင်းပေါ်ရွက်၊ မိဖုရားကြီးက စစ်သူကြီး သုမုခကို ခေါင်းပေါ်ရွက်ပြီး နန်းတော် ပြင်ဘက်မှာ ချမ်းချမ်းသာသာ ဖြစ်အောင် စီမံလို့ ပြန်ပြီး လွှတ်ကြပါသတဲ့။

## ဘဝသံသရာ ပါရမီဖြည့်ဖက်တွေ

အခုလို ဟင်္သာမင်းနှစ်စီးလိုက်လာတဲ့အတွက် ထွက်ပေါ်လာတဲ့ အကျိုးတွေကတော့ ၁။ ဋ္ဌေဟင်္သာမင်းကြီး ပညာကြီးကြောင်းကို တစ်နန်းတော်လုံး သိကြရတယ်၊ ၂။ ဋ္ဌေဟင်္သာမင်းကြီးနှင့် စစ်သူကြီးသုမုခတို့ မိတ်ဆွေပီသ သံယောဇဉ်ခိုင်မြဲကြ ပုံကိုလဲ တွေ့ကြရတယ်၊ ၃။ မုဆိုးကြီးလဲ ဆုလာဘ်တွေ ရတယ်၊ ၄။ ဗာရာဏသီ သံယမမင်းကြီးလဲ ငါးပါးသီလ တည်သွားတယ်၊ ၅။ မိဖုရားကြီးလဲ စိတ်အလို ဆန္ဒ ပြည့်ဝသွားရတော့တယ်၊ အဲဒီနောက်မှာတော့ သူတော်ကောင်းဖြစ်ချင်တဲ့သူတွေဟာ ဒီဇာတ်လမ်းမှာပါတဲ့ ပုဂ္ဂိုလ်တွေရဲ့ ကောင်းတဲ့လက္ခဏာတွေကို ရယူဖို့ ဖြစ်လာတော့တာပေါ့။

ဒီပုဂ္ဂိုလ်တွေဟာ ဘယ်သူတွေလဲဆိုတော့ ဘုရားကိုယ်တော်မြတ်က ဇာတ်ပေါင်းပြတယ်၊ ဗာရာဏသီ သံယမမင်းကြီးဆိုတာ တခြားသူ မဟုတ်ဘူး၊ ယခု သာရိပုတ္တရာပဲတဲ့၊ ခေမာမိဖုရားကြီးဆိုတာလဲ ယခု ခေမာထေရီရီပဲ၊ မုဆိုးကြီးဆိုတာက... ယခု ငယ်ကျွန်တော်ရင်း ဆန္န၊ စစ်သူကြီးသုမုခကတော့ ယခုအခါ အာနန္ဒာ၊ ဋ္ဌေဟင်္သာမင်းကြီးဆိုတာက ငါဘုရား၊ ဟိုတုန်းက ဟင်္သာ ကိုးသောင်းဆိုတာများကတော့ ယခုငါဘုရားရဲ့ ပရိသတ်တွေပဲ"လို့ ဇာတ်တော်ကို ပေါင်းပြထားပါတယ်။

ဒါကြောင့် တရားနာချင်ပါတယ်လို့ အစပျိုးခဲ့တဲ့ မိဖုရားကြီးဟာလဲ ခေမာထေရီရဲ့ အလောင်းမို့ ဒီလို ဆန္ဒဖြစ်တာပဲ၊ စစ်သူကြီးဆိုတာကလဲ အရှင်အာနန္ဒာရဲ့ အလောင်းမို့ ဒီလောက် သစ္စာရှိ သံယောဇဉ် တွယ်တာပဲ၊ မုဆိုးကြီးကလဲ ဆန္နအလောင်းမို့ ကိုယ်ချင်းစာစိတ်တွေ ဝင်တာပဲ၊ ဗာရာဏသီဘုရင်ကြီးကလဲ အရှင်သာရိပုတ္တရာရဲ့ အလောင်းမို့ ဘုရားလောင်း ဋ္ဌေဟင်္သာမင်းကြီးအပေါ် လေးစားတာပဲ၊ အားလုံး ချုပ်လိုက်ရင် "ပါရမီဖြည့်ဖက်တွေမို့" တစ်ဦးနှင့်တစ်ဦး တွေ့ကြ၊ တစ်ဦးနှင့်တစ်ဦး ငဲ့ကြတာပဲ၊ အင်မတန် အတုယူဖို့ ကောင်းတယ်။

၅၄၅

## အတုယူစေချင်လို့ ဒီဇာတ်ကို ဟောတာ

### သိစေချင်လို့ အတုယူစေချင်လို့

အခု ဒကာ ဒကာမတွေလဲ ကိုယ်ချင်းသာ မသိကြတာ, ဘဝသံသရာထဲမှာ အခုလို လာတွေ့နေကြရတာ၊ ဒီသဘောတွေ ဖြစ်နိုင်တယ်၊ ရှေးသူတော်ကောင်းတွေရဲ့ စိတ်နေစိတ်ထားတွေ၊ အမူအကျင့်တွေကို အတုယူပြီး ကျင့်သုံးကြဖို့ပဲ၊ တွေ့ခိုက် ကြုံခိုက်မှာ ငဲ့ညှာကြဖို့,စာနာကြဖို့လိုတယ်၊ စိတ်ကောင်းနှလုံးကောင်း ရှိကြဖို့လိုတယ်၊ ပါရမီဖြည့်ဖက်တွေဆိုတာ ဘဝသံသရာထဲ ဒီလိုပဲ တစ်ဦးကိုတစ်ဦး ငဲ့ညှာထောက်ထားပြီး လာခဲ့ကြတာ။

ဒီဇာတ်တော်ထဲမှာ အတုယူစရာတွေ အများကြီးပါတယ်၊ လိုက်နာကျင့်သုံးစရာတွေလဲ တစ်ထုံး တစ်ဖွဲ့ကြီး, ဒါတွေကို ဒကာ ဒကာမများ သိစေချင်လို့ ဘုန်းကြီးက ဒီဇာတ်တော်ကို ထုတ်ဖော်ဟောပြတာ၊ နားထောင်ကောင်းရုံ ဟောပြနေတာ မဟုတ်ဘူး၊ ကိုယ်တိုင်လက်တွေ့ ကျင့်သုံးစေချင်လို့, အတုယူကြစေချင်လို့ ဟောပြနေတာ။

အခုတော့ သူတို့က ဘာတွေ အတုယူနေကြသလဲ၊ တလွဲတွေ အတုယူနေကြတယ်၊ ကိုယ်ကျင့်စာရိတ္တတို့, စိတ်နေစိတ်ထားတို့, ရဲရင့်တည်ကြည်မှုတို့, ဖြောင့်မတ်မှုတို့, မေတ္တာတို့, သစ္စာတို့ကိုတော့ အတုမယူကြဘူး၊ ပကာသနတို့ ဂုဏ်တို့ အဆောင်အယောင်တို့ကျတော့ သူတို့ ယူကြပြီ၊ ဒါတွေဟာ အနှစ်အသားလားလို့, ကဲ-ပြောကြစမ်းပါဦး။

အလှူ့ဒကာ စဉ်းစားစမ်း, စဉ်းစားစမ်း၊ ဒကာတို့ဟာ လူ့ဘဝ လူ့လောကကြီးထဲမှာ (အသက်အတိုင်းနေရရင်) အကြာကြီး နေရဦးမှာ၊ အခုမှ အသက် ၄၀ တောင် မပြည့်သေးဘူး၊ အခု ဘာတွေလုပ်နေမိကြသလဲလို့ သေသေချာချာ စိစစ်ကြစမ်း"

ဆရာတော်၏ တရားက အစပိုင်းက လေသံမျိုး တစ်ပတ်ပြန်၍ လည်လာပြန်ချေပြီ၊ အလှူ့ဒကာ ဒကာသောင်းညာဏ်တို့ကား အခံရ အခက်ဆုံးဖြစ်၏၊ ဟုတ်နေသဖြင့် ပြန်၍လည်း မလျှောက်သာ။

## သာသနာတော်ကို ဘယ်လို မြင်ကြသလဲ

သူ့တရားကား မဆုံးသေး, ဆက်ဟောနေပြန်၏၊ "တိုင်းပြည်တစ်ခုမှာ အာဏာအရှိဆုံးက ရှင်ဘုရင်, ရှင်ဘုရင်က တစ်ဖန် သူ့ထက် အဆင့်အတန်းမြင့်တဲ့ သိကြားတို့ ဗြဟ္မာတို့ကို အားကျတယ်၊ အထင်ကြီးတယ်၊ ဒီတော့ အပြင်အဆင်တွေမှာ သိကြားတို့ ဗြဟ္မာတို့လို မကိုဋ်တွေဆောင်း, စလွယ်တွေသိုင်း, လက်စီးပုံ လက်ကြပ်ပုံတွေနှင့် ဖြစ်ကုန်ရော။

ဂုဏ်ရှိတဲ့သူတွေ လုပ်တာ ဟုတ်တယ်ထင်ပြီး အဲဒီက တစ်ဆင့် အမတ်ကြီးတွေက အတုယူ, အဲဒီနောက် အရပ်သားတွေကပါ အားကျ, သူတို့ အားကျတာနှင့် ဘုရားရုပ်တုတော်ကိုပါ မကိုဋ်တွေ, သရဖူတွေ လက်စီးတွေနှင့် ဆင်ကုန်ရော၊ **ဘုရားက ကျေနပ်မယ် မှတ်လို့, ဘုရားက အဲဒီ အဆောင်အယောင်တွေကို တမင်စွန့်ပစ်လာခဲ့တာ၊** အဲဒီက နေပြီးတော့ အခု ရှင်ပြုကြတဲ့ ရှင်လောင်းကလေးတွေအထိ မကိုဋ်တွေ စလွယ်တွေနှင့် ဆင်ကုန်ကြရော၊ ရှင်လောင်းကလေးတွေ ကျပြန်တော့လဲ ငယ်ငယ်မွှားမွှားနဲ့ သက်န်းမနိုင် ဘာမနိုင်, မိဘတွေကလဲ သူတို့သားလေးတွေ သင်္ကန်းဝတ်ကလေးနှင့် ပျော်ရင်ပြီးရောဆိုပြီး မုန့်ဖိုးပိုက်ဆံ ပေးထားကြရော၊ ကိုရင်လေးတွေကလဲ လမ်းထွက်ပြီး ရေခဲခြစ်တို့ ရေခဲချောင်းတို့ ဆီးထုပ်တို့ ဝယ်စားကြရော၊ ကြည့်ကောင်းကြသေးရဲ့လား,"သာသနာကို ဘယ်လိုမြင်နေကြတာလဲ"လို့ မေချင်တယ်၊ အခု ကိုရင်လေးတွေကို အဲလို ပိုက်ဆံ ပေးမထားကြနဲ့ အလှူ့ဒကာ အလှူ့အမတွေ။

ဆရာတော်ကား တွေ့သမျှ မြင်သမျှတွေကို မချွင်းမချန်, အကုန်ဖွင့်အံ သွန်ဟောနေတော့သည်၊

သို့သော်လည်း အလှူ့ဒကာကား မကျေနပ်လှ၊ ဘဝင်မကျ အားမရဘဲနှင့် တရားပွဲကြီး ပြီးဆုံးသွားပါတော့သည်။

သို့နှင့် နောက်တစ်နေ့ (ရှင်မယ်ခံပွဲ) တွင် နောက်ထပ် ဘုန်းကြီးတစ်ပါး ပြောင်းလဲပင့်၍ ရှင်မယ်ခံအတွက် ရေစက်ချသည်၊ ထိုမျှမက ယမန်နေ့က တရားတွေနှင့် ရေစက်ချကိုပါ မကျေနပ်၍ "မနေ့တုန်းက အလှူပွဲကြီး အတွက်ပါ ရောပြီး ရေစက်ချပေးပါဘုရား"ဟု လျှောက်သည်အထိပင် ဖြစ်တော့သည်။

## အဝင်ဆိုးသော ဆေးခါးကြီးသဖွယ်

အလှူပွဲကြီးကား ပြီးစီးသွားလေပြီ၊... ဒကာသောင်းညဏ်ကား စိတ်အေးကိုယ်အေး ဖြစ်၍သွား၏၊ တာဝန်ကြီးတစ်ခု ပြီးသွား၍ ခေါင်းပေါ့သွားသလို ဖြစ်သည်၊ ထို့ကြောင့် အလှူပွဲကြီးတုန်းက တရားတိပ်ခွေတို့ကို ပြန်လည်ဖွင့်၍ အေးအေးဆေးဆေး နာကြည့်သည်၊ အထူးသဖြင့် မိမိ ဘဝင်မကျခဲ့သော ဆရာတော်ကြီး အရှင်ဇနကာဘိဝံသ၏ တရားတော်ကို အာရုံစူးစိုက်၍ နာကြည့်သည်၊ တစ်ခေါက်ဆုံးသောအခါ ဘာလိုလို ဖြစ်၍လာ၏၊ နောက်တစ်ခေါက်ပြန်၍ ဖွင့်ကြည့်သောအခါ လက်ခံချင်လာသည်၊ နောက်တစ်ခေါက်တွင်ကား "ဆရာတော်ရဲ့ ဆုံးမချက် သွန်သင်ချက်တရားတော်တွေဟာ ဟုတ်ပေသားပဲ၊ မှန်ပေသားပဲ"ဟု ပီပီပြင်ပြင် လက်ခံလာတော့သည်၊ ထို့နောက်တွင်ကား ... မကြာမကြာ ဖွင့်၍ အဓိပ္ပာယ်ကျယ်ပြန့်စွာ တွေးလေ မှန်လေ ဖြစ်သည်ကို ဘဝင်ကျ ခြိုက်မြိုက်လာတော့၏၊ ထို့ပြင် "တို့ကို လမ်းမှန်ရောက်အောင် ဆုံးမပေးသည့် ဆရာတော်ကြီးတစ်ပါး တွေ့ပြီ"ဟုလည်း ကျေနပ်တော့သည်ဟူ၏။

ဒကာသောင်းညဏ်၏ အသိဉာဏ်ခံယူချက်တို့ကား ပြောင်းလဲသွားခဲ့ပြီတည်း၊ စောစောပိုင်းကမူ ဆရာတော်၏ ဟောပြောချက်တို့သည် ဟုတ်သော်လည်း အခံခက်လှ၍ လက်မခံချင်ခဲ့ပေ၊ အဝင်ဆိုးသော ဆေးခါးကြီးသဖွယ် ဖြစ်၏၊ ရှုံ့မဲ့၍ မျိုရသလို ရှုံ့မဲ့၍ နာယူရသည်၊ ယခုသော်ကား "မည်မျှပင် အဝင်ဆိုးသော်လည်း စွဲကပ်နေသော ရောဂါမျိုးကို ပယ်ချိုး ပျောက်ကင်းစေနိုင်သော ဆေးကောင်း ဝါးကောင်း ဖြစ်ဖို့သာ အဓိက"ဟု အလှူ့ဒကာ သိလာရတော့သည်၊ အမြင်ပြောင်း၍ သွားလေပြီ၊ အသိဉာဏ်လည်း ကြည်လင်လာလေပြီ၊ အမြင်လည်း ပီပြင်လာလေပြီ၊ ကျေနပ်အားရမှုလည်း ဖြစ်လာ၏၊ စိတ်ထဲတွင် နှစ်ခြိုက်မှုတို့နှင့် ပြည့်၍နေတော့သည် ဟူသတတ်။

ထို့ကြောင့်လည်း ဒကာသောင်းညဏ်က ဟိုနေရာ ဒီနေရာတွင် မိတ်ဆွေအပေါင်းအသင်းတို့ နှင့် ဝိုင်းဖွဲ့၍ တရားပေစာ ပြောဆိုကြပြီဆိုလျှင် "ကျွန်တော်က တရားတိပ်ခွေ တစ်ခွေထဲနှင့် ကျွတ်တဲ့သူပါဗျ"ဟု ဂုဏ်ယူ၍ နေသော ဟူ၏။

## ပေးတိုင်း မယူ လှူတိုင်း မစား

ဒကာသောင်းညဏ်ကား အမြင်ပြောင်းလဲပြီးနောက် ဆရာတော်ကြီး အရှင်ဇနကာဘိဝံသကို စိတ်ဝင်စားလာ၏၊ ဇနီးဖြစ်သူ ဒေါ်ခင်လှနှင့်အတူ ဆရာတော်ကြီးထံ ကန်တော့ရန် ကြိုးကြားကြိုးကြား ရောက်လာတတ်သည်၊ ထိုမှ တစ်ဆင့် တက်၍ "အမရပူရမြို့ မဟာဂန္ဓာရုံကျောင်းတိုက်ထဲမှာ ကျောင်းဆောက်ချင်သည်"ဟု ဆန္ဒ ဖြစ်လာ၏၊ သံဃာတော် ၅၀၀ ကျော်နှင့် လက်ရှိ သိမ်ထဲတွင် ကြပ်တည်းစွာ ဥပုသ်ပြု ဝင်နေသည်ကိုလည်း တစ်ခါတစ်ခါ မြင်နေကြရသည်။

သို့ဖြစ်၍ ဇနီးနှင့်တိုင်ပင်ကာ "သံဃာတော် တစ်ထောင်ခန့် ဥပုသ်ပြုနိုင် စည်းဝေးနိုင်လောက်သော သိမ်ကျောင်းကြီးတစ်ခု ဆောက်လုပ်လှူဒါန်းလိုပါသည်"ဟု လျှောက်ကြတော့၏။

ဆရာတော်ကလက်မခံ၊ အလှူကြီးပေး၍ များစွာ ကုန်ကျထားသူ ဖြစ်သောကြောင့် စီးပွားရေးအခြေ ယိုင်လိမ့်မည်ဟု အကြောင်းပြ၏။

သို့နှင့် နှစ်လခန့် နေပြီးမှ လျှောက်သောအခါတွင်လည်း လက်မခံလိုက်၊ နောက်ထပ်တစ်ဖန် နှစ်လ သုံးလနေ၍ လျှောက်ကြပြန်သည်။

စီးပွားရေးအခြေအနေကို မေးတော်မူ၏၊ "တတ်နိုင်ပါသည်ဘုရား"ဟု လျှောက်သောအခါ စဉ်းစားပါဦး ဖြည်းဖြည်းပေါ့၊ မနိုင်မနင်း မလုပ်ပါနဲ့"ဟု မိန့်နေပြန်သည်၊ သို့နှင့် နောက်ထပ် နှစ်ခေါက် သုံးခေါက် လာ၍ အကြိမ်ကြိမ်လျှောက်တော့မှ "အကောင်းအမွန်ကြီး ပျံနေအောင် မဆောက်ရ, ခပ်ကြမ်းကြမ်း သုံးစွဲဖြစ်ရုံမျှသာ ဆောက်ရမယ်" ဟု အခွင့်ရတော့သည်။

ဤသို့လျှင် ဆရာတော်က "ပေးတိုင်း မယူ, လှူတိုင်း မစားသင့်၊ အတိုင်းအရှည်ကို သိရမည်"ဟု မိန့်တတ်သည့်အတိုင်း ဆုတ်ဆိုင်းနေခြင်း ဖြစ်ဟန်တူပါသည်။

## ကျောင်းဒါယကာများ ဖြစ်လာကြ

ထိုသို့ အခွင့်ရသည်ဆိုလျှင်ပင် ဒကာသောင်းညာဏ်နှင့် ဒကာမ မခင်လှတို့ အားရဝမ်းသာဖြင့် ဆောက်လုပ်ဖို့ရန် စီမံတိုင်ပင်ကြတော့၏၊ ထို့နောက် ဆောက်လုပ်ရေးပစ္စည်းများ လာ၍ ပို့ကြသည်၊ ဆောက်လုပ်သောအခါတွင် ဆရာတော်က ဦးပဉ္စင်း ကိုရင်များ အနားသို့ သွားသည်ကို မကြိုက်, သွားခိုက်ကြုံခိုက်တွင် အပို စီမံမိပါက သူတို့မှာ ရည်မှန်းသည်ထက် ပို၍ ကုန်သွားလျှင် တာဝန်မကင်းဖြစ်မည်ဟု အကြောင်းပြတော်မူ၏။

ထိုအထဲတွင် ပန်းရံသမား လက်သမားတို့က အကောင်းစားပြုလုပ်လာသည်ဟု ထင်လျှင် ဆရာတော်က သွား၍ သွား၍ တားတတ်သေး၏၊ ဤသို့ဖြင့် ကျယ်ဝန်းသော တစ်ထပ်အုတ်တိုက် သိမ်ကျောင်းကြီး ပြီး၍ သွားတော့၏၊ ကျောင်းဒကာ ကျောင်းအမတို့၏ နေထိုင်ရာ မန္တလေးမြို့ ပွဲကုန်းရပ်ကို အစွဲပြု၍ "ပွဲကုန်းသိမ်ကြီး"ဟု ခေါ်နေကြသည်၊ ဤနည်းဖြင့် သူတို့သည် ကျောင်းဒကာ ကျောင်းအမများ ဖြစ်၍ လာကြ၏၊ ရှေးအကြောင်း ရှိ၍ ယခု အဆက်ဖြစ်လာကြသည်ဟုပင် ဆိုရချေတော့မည်။

## သံဃာနှင့်နီးလာမလားလို့

ဤသို့ ရင်းနှီးသော ကျောင်းဒကာ ကျောင်းအမများ ဖြစ်၍ လာလေ, ဆရာတော်ကြီးက ပိုပြီး ဆုံးမသွန်သင်လေ ဖြစ်၍ လာတော့၏၊ ရင်းနှီးသူများဟူ၍ကား မျက်နှာသာ မပေးချေ၊ ပြောစရာရှိလျှင် ပြောသည်၊ ဆိုစရာရှိလျှင်လည်း မချွင်းမချန် ဆိုတတ်သည်၊ ကျောင်းဒကာ ကျောင်းအမတို့ကလည်း "ယခုမှ တို့မှာ ဆုံးမမည့် မိဘတစ်ဦးတိုးလာသည်" ဟု ခံယူထားသူ ဖြစ်ကြ၏။

တစ်ခါတွင် သံဃာများအား လှူဖို့ ရေမွှေးဆပ်ပြာခဲတွေ အတော်များများ ယူလာဖူး၏၊ ထိုအခါ ဆရာတော်က "ဒကာသောင်းညာဏ် သံဃာတွေနှင့် အတော်နီးလာပလား မှတ်တယ်၊ ဝေးသေးတာကိုး"ဟု အဆိုခံရဖူးသည်၊ ထို့နောက် သိမ်ကျောင်းကြီးဆောက်၍ မပြီးသေးမီ, သောက်ရေအိုးစင်လှူသောကိစ္စ ပေါ်လာ၍ မငဲ့မညှာပင် ပယ်တော်မူ၏၊ ပထမသော် သူတို့လည်း ဘာ့ကြောင့် ပယ်သည်ဟု မသိကြ၊ နောက်မှ သူများတွေ ပြောပြ၍ အဓိပ္ပာယ်ပေါက်လာတော့သည်။

## သီလဖွေး၍ ဆေးထက်သာ

* ဘုရားလက်ထက်တော်တုန်းက တစ်နေ့တွင် အရှင်သာရိပုတ္တရာကိုယ်တော်မြတ်ကြီး လေနာရောဂါ ဖြစ်နေ၏၊ အခံရခက်အောင် ဝေဒနာ ပြင်းပြနေသည်၊ ထိုအခါ အလွန်ရင်းနှီးသော အရှင်မောဂ္ဂလ္လာန်ကိုယ်တော်မြတ်ကြီးက သွား၍မေး၏။

"ရှေးတုန်းက ဒီလိုဖြစ်ရင် ဘာဆေးနှင့်ပျောက်ဖူးပါသလဲ"

"လူ့ဘဝတုန်းကတော့ မိခင်ကြီးက ထောပတ်ပျားရည် သကြားတို့နှင့် နွားနို့စစ်စစ်ကို ပြစ်ပြစ်ကျိုထားတဲ့ ယနာနို့ထမင်းကို ကျွေးလို့ ပျောက်ဖူး

* ဝိသုဒ္ဓိမဂ်၊ သီလနိဒ္ဒေသ–၄၀။

ပါတယ်"ဟူ၍ ဖြေသည်။

အရှင်မောဂ္ဂလ္လာန်က "အရှင်ဘုရား ဘုန်းကံ တပည့်တော် ဘုန်းကံ ရှိကြရင် ရကောင်း ရပါလိမ့်မည်"ဟု ပြောကာ နောက်တစ်နေ့တွင် သပိတ်ပိုက်၍ မြို့ထဲသို့ ဆွမ်းခံဝင်ခဲ့၏၊ အိမ်တစ်အိမ်သို့ ရောက်သောအခါ အလိုရှိသော ယနာနှိဆွမ်း ရလေသည်၊ အရှင်မောဂ္ဂလ္လာန်လည်း ဝမ်းသာအားရ ပြန်လာခဲ့ပြီးလျှင် အရှင်သာရိပုတ္တရာအား ကပ်လှူ၏၊ အရှင်သာရိပုတ္တရာက မဘုဉ်းပေးမီ ဆင်ခြင်ကြည့်သည်။

ထိုအခါ သူတို့နှစ်ပါး ပြောစကားကို နတ်သားတစ်ဦးက ကြား၍ ရနိုင်လောက်သည့် အိမ် တစ်အိမ်သို့ သွားပြီးလျှင် ပွဲစားသဖွယ် ဆက်သွယ် လှူ့ဆော် ကြိုးစားထားသော အစာ ဖြစ်နေသည်ကို သိနေရတော့၏၊ ထို့ကြောင့် "ဒီ အစာဟာ မစားထိုက်သော အစာဖြစ်နေပြီ ဘုရား"ဟု လျှောက်တော့သည်။

အရှင်မောဂ္ဂလ္လာန်လည်း ချက်ချင်းပင် သပိတ်ကို ယူ၍ တစ်နေရာသို့ သွားပြီး သွန်လေ၏၊ ထို ပစ္စည်းများ မြေပေါ်သို့ ကျသည်နှင့် ရောဂါလည်း ပျောက်သွားလေသည်၊ ဖြူစင်သော သီလတို့၏ အစွမ်းပင်တည်း၊ အရှင်သာရိပုတ္တရာက အမိန့်ရှိပါသေးသည်။

**ယဒိပိ မေ အန္တဂုဏံ၊ နိက္ခမိတွာ ဗဟိ စရေ၊ နေဝ ဘိန္ဒေယျမာဇီဝံ၊ စဇမာနောပိ ဇီဝိတံ။**

"မစားရလို့ ဝမ်းဗိုက်ထဲက အူတွေ အခွေ အခွေ ထွက်ပါစေ၊ အသက်သေ်ာလဲ သေချင် သေပါစေ၊ သီလကိုတော့ မဖျက်နိုင်ဘူးဘုရား"

ဤသဘောအလား ဆရာတော် အရှင်ဇနကာဘိဝံသကလည်း နောင်တော် နောင်တော်များကဲ့သို့ ပညတ်ထားအပ်သော ဝိနည်းသိက္ခာပုဒ်တော်ကို လေးစားသည့်အနေ ရှောင်ကြဉ်တော်မူခြင်း ဖြစ်ပေလိမ့်မည် ထင်ပါသည်။

## လှူလို့ မွဲတယ်ဆိုတာ မရှိခဲ့ဖူးဘူး

သီလဖြူစင်လျှင် လယ်ယာမြေကောင်းအသွင် ဖြစ်၏၊ စိုက်ပျိုးသမျှ အကျိုးရ၏၊ ဒကာ ဒကာမတို့ကို ချီးမြှောက်ရာပင် ရောက်သည်၊ *တစ်ခါတွင် မြတ်စွာဘုရားက နောက်ပါ ရဟန်း ၅၀၀ နှင့်အတူ ဒေသစာရီ ခရီးကြွချီနေ၏၊ ပုဏ္ဏားရွာကြီးတစ်ခုသို့ အရောက် ပုဏ္ဏားကြီးတစ်ဦးက "ဘုရားကိုယ်တော် မြတ်တို့ဟာ သတ္တဝါတွေ အပေါ် သနားတတ်တယ်လို့ ကြားဖူးပါသလား"ဟု ဆီး၍ မေးခွန်းထုတ်တော့သည်။

ဗုဒ္ဓမြတ်စွာက "ဟုတ်ပေသည် ဒါယကာ၊ ဘုရားကိုယ်တော်မြတ်တို့ဟာ သတ္တဝါတွေအပေါ်မှာ သနားတတ်ကြသည်"ဟု ဖြေတော်မူ၏။

"သနားတတ်တယ်သာဆိုတယ်၊ အခုလို ရှားပါးတဲ့ခေတ်ကြီးမှာ တပည့်တွေအများကြီးနှင့် လျှောက်သွားနေတော့ ရောက်လေရာ မြို့ရွာနိဂုံးတို့မှာ ဧည့်ခံကြရလို့ မွဲမကုန်ပေဘူးလား၊ သနားရာ ရောက်ပါဦးမည်လားဟု မေးမြန်းတော့၏။

ထိုအခါ ဗုဒ္ဓမြတ်စွာက အတိတ်ကာလတို့ကို ဆင်ခြင်ကြည့်တော်မူရာ သာသနာတော်ကြောင့် လှူလို့ ဘယ်ဘုရားလက်ထက်မှာမှ မွဲကုန်ကြသည်ဟု မတွေ့ရပေ။

သို့ဖြစ်၍ **"ဘုရားသာသနာအတွက်ကြောင့်တော့ မည်သည့်ကာလကမျှ မွဲခဲ့သည်ဟု မရှိခဲ့ပေ"**ဟု ဤသို့ တိတိကျကျ ဖြေတော်မူသည်။

## သိတာတစ်ခုတော့ ရှိပါတယ်ဘုရား

ထိုဖြေတော်မူချက်အတိုင်းပင် ဖြစ်၏၊ မြန်မာပြည်၌ ရပ်နားနေသော ဘုရားသာသနာတော်ကို ထောက်ပံ့ကြသည့် ဒါယကာ ဒါယိကာမတို့သည်လည်း ထောက်ပံ့ခြင်းကြောင့် မွဲကုန်ကြသည်ဟု မကြားရဖူးချေ၊ အတိုချုပ်အားဖြင့် "လှူလို့ မွဲသွားတယ်ဆိုတာ မရှိခဲ့ဖူးဘူး" ဟု ဆိုလို၏၊ ယခုအခါ

---

* သံယုတ် (သဠာယတန) ပါဠိ – ၅၀၀၀)

ဒကာသောင်းညာဏ်တို့လည်း ဤသဘောမျိုးကို တွေ့နေကြရပြီ၊ သူတို့သည် ယခုအခါ ခေတ်တန်ဖိုး အနေဖြင့် မနည်းလှသော ကျောင်းကြီးကို ဆောက်လုပ်ပြီးစီးခဲ့၏။ ဆရာတော်က မေးသည်။

"ဒကာသောင်းညာဏ်, ကျောင်းကြီးဆောက်တာ ဘယ်လောက် ကုန်သွားသလဲ"

"ဘယ်လောက်ကုန်သွားသလဲဆိုတာ မသိပါဘူး ဘုရား"

"အို-ကိုယ့်အလုပ်ကိုယ် သိရမှာပေါ့, စာရင်းဇယားဆိုတာ ထားရမှာပေါ့"

"မှန်ပါ, အစပိုင်းကတော့ စာရင်းဇယား ထားပါသေးတယ်, မှတ်ပါသေးတယ်ဘုရား၊ နောက်တော့လဲ ဘယ်လောက်ကုန်ကုန် ကုန်သမျှ ငါက ချည်း ထုတ်ပေးရမှာပဲဟာ မမှတ်တော့ဘူးဆိုပြီး မမှတ်တော့တာပါဘုရား"

"ဒါဖြင့် ဒကာသောင်းညာဏ်က ကျောင်းကြီးနှင့် ပတ်သက်လို့ ဘာမှ မသိဘူးပေါ့"

"မှန်ပါ, မသိဘူးတော့ မဟုတ်ပါဘူးဘုရား၊ သိတာတစ်ခုတော့ ရှိပါတယ်ဘုရား၊ ဘာလဲဆိုရင် ဒီ-သိမ်ကျောင်းကြီး စတင် ဆောက်စက အမှန်အတိုင်း ဝန်ခံရရင် တပည့်တော်မှာ ငွေများများစားစား မရှိပါ၊ အလှူကြီးက ပြီးစမို့ ငွေသိပ်များများ မကျန်တော့ပါ၊ ဆောက်ချင်လွန်းလို့သာ ရှိသမျှငွေစ အနည်းအပါးနှင့် လုပ်ငန်းစခြင်းပဲ ဘုရား၊ အဲလိုနှင့် လက်သမား ပန်းရံတို့က လိုတယ် ဆိုပေးဖို့ဖြစ်လာ, ထုတ်ပေး နောက်တစ်ခါ လိုတယ်ဆို အသင့်ဖြစ်လာ, ထုတ်ပေးနဲ့ လာခဲ့တာပဲ၊ အခုရောမကျောင်းကြီးလဲ ပြီးသွားတယ်၊ ဘုရားတပည့်တော်ရဲ့ လုပ်မြဲလုပ်ငန်းလဲ ပုံမှန်အတိုင်းပဲ၊ အတိုင်းအတာက လျော့ပြီး ကျဆင်းမသွားဘူးဘုရား။

ကြွေးလဲ မဆွဲရဘူး၊ ရွှေတိုငွေစ အထည်ပစ္စည်းကို ပေါင်နှံခြင်း, ရောင်းချခြင်းလဲ မလုပ်လိုက်ရ ဘူး၊ စားမြဲ သောက်မြဲ နေမြဲဘဲ၊ အတိုချုပ်ကတော့ "အရင်းမလျော့ဘဲနှင့် 'အခုလောက် ကြီးမားတဲ့ ကျောင်းကြီးတစ်ဆောင် ပြီးသွားတယ်ဆိုတာကိုတော့ သိလိုက်ပါတယ်ဘုရား"ဟု လျှောက်လိုက်ရာ ဆရာတော့်မျက်နှာမှာ ဝင်းစို၍ပြုံးသွားလေတော့သတည်း။

## တီးတာ မှုတ်တာ ကြိုက်လွန်းလို့ စက်နေတယ် အတီးအမှုတ်တွေ မြိုင်မြိုင်နဲ့

တစ်နှစ်တွင် မန္တလေးမြို့ ဗန္ဓုလသက်န်းတိုက် မိသားစုများက တောင်မြို့ မဟာဂန္ဓာရုံကျောင်းတိုက်သို့ လာ၍ ကထိန်ခင်းကြဖူး၏၊ ဗန္ဓုလသက်န်း အလုပ်သမားများနှင့်တကွ သိုက်သိုက်ဝန်းဝန်း မြိုင်မြိုင်ဆိုင်ဆိုင် လာကြသည်၊ လမ်းတစ်လျှောက်တွင် အတီးအမှုတ် အကအခုန်တို့ဖြင့် ပျော်ခဲ့ကြ၏၊ လူငယ်ပိုင်း၏ အစီအစဉ်အရ "ဗန္ဓုလ" ဆိုသည့် အတိုင်း ဗန္ဓုလစစ်သူကြီး စစ်မြေပြင်သို့ စစ်ထွက်လာလေဟန် ပုံဖမ်းထားကြသည်။

တစ်ယောက်သောပုဂ္ဂိုလ်က ဗန္ဓုလအဝတ်အစားတို့ကို ဗန္ဓုလအသွေးအတိုင်း ဆင်မြန်း၍ ဗန္ဓုလခမောက်, ဗန္ဓုလစလွယ်, ဗန္ဓုလလက်စီး, ဗန္ဓုလချပ်မိန်နှင့် ဗန္ဓုလဓားကြီးကို ဝင့်ကြွားစွာကိုင်၍ ဗန္ဓုလမြင်းကြီးကို စီးပြီးလျှင် ထီးထီးကြီး ရှေ့ဆုံးမှ ချီတက်လာကာ ဗန္ဓုလပရိသတ်များနှင့်တကွ မဟာဂန္ဓာရုံကျောင်းဝင်းထဲသို့ ဝင်လာကြသည်၊ အတီးအမှုတ်များလည်း မြိုင်ကြ၏၊ အမှတ်တမဲ့ ပြုမိကြခြင်း ဖြစ်သည်။

ဆရာတော်သည်လည်း ကျောင်းဝင်းအဝင်ဝ အနီးတွင် ရောက်နေ၏၊ ဆရာတော်သည် စာရေးဆရာ, ကျမ်းပြုဆရာတော်ပီပီ အရာရာတွင် စေ့စေ့စပ်စပ် ကြည့်မြင်တတ်၍ နားမျက်စိတို့ကို အမြဲတမ်း ဖွင့်လျက် ဖွင့်လျက် နေတတ်သည်၊ လောကသဘာဝကို လေ့လာတတ်၏၊ ယခုလည်း ကျောင်းဝင်းအတွင်း ဝင်လာသော ပရိသတ်ကို အကဲခတ် လေ့လာနေသည်။

## မကြိုက်၍ မဟုတ်, မတော်၍ တားရ

ထိုစဉ်တွင် သူတို့လူငယ်အဖွဲ့၏ ခေါင်းဆောင်ဟု ထင်ရသော ပုဂ္ဂိုလ်တစ်ယောက်က နောက်မှ ရှေ့သို့ ပြေးတက်လာ၍ "ဟေ့ ဟေ့ ဟေ့, အတီးအမှုတ်တွေ ရပ်ကြကွ, ရပ်ကြကွ, ဒီကျောင်းတိုက်ထဲမှာ မတီးရဘူး, မမှုတ်ရဘူး၊ တီးတာ မှုတ်တာကို ဆရာတော် မကြိုက်ဘူးကွ" ဟူ၍ အရေးတကြီး အော်ဟစ် ပြောလေသည်၊ တားမြစ်သံကို ဆရာတော် ကြား၍ ပြုံးနေမိသည် ဟူ၏၊ အတီးအမှုတ်များလည်း ရပ်သွားကြ၏၊ နောက်တစ်နေ့ နံနက်ခင်း သံဃာတော်များအား ဩဝါဒပေးရာတွင် ယင်းအကြောင်းအရာကို ထည့်သွင်းမိန့်ကြားပါတော့၏။

"သူတို့က ဘုန်းကြီးကို တီးတာ မှုတ်တာ မကြိုက်ဘူးလို့ ထင်နေကြတာ၊ ဘယ်ဟုတ်လိမ့်မှာလဲ၊ ဘုန်းကြီးက သိပ်ဝါသနာပါတာ၊ တီးတာ မှုတ်တာ ကြိုက်လွန်းလို့ ခက်နေတယ်၊ ငယ်ငယ်က စပြီး ဘုန်းကြီးက ခပ်ရွှင်ရွှင် နေလာခဲ့တာ၊ ကြိုက်တာပေါ့,ဘုန်းကြီးက ရွှင်လန်းဝမ်းမြောက်တတ်တဲ့ သောမနဿနှင့်ပဋိသန္ဓေနေခဲ့သလားမသိဘူး၊ တီးတာမှုတ်တာ စိတ်ဝင်စားတယ်။

ငယ်ငယ်တုန်းကဆိုရင် အရပ်က ဘုန်းကြီးပျံပွဲတစ်ခုမှာ လောင်တိုက်တလားကြီးပေါ်ကို စက်သီးနှင့် ဆင်ထားပြီး နတ်မြင်းပျံရထားကြီးနှင့် တက် က ရမယ့် အလုပ်ကို ရွေးချယ်ထားကြလို့ က မယ်တောင် လုပ်သေးတယ်၊ နောက်တော့ မက ဖြစ်ပါဘူး၊ အဲလို ကြိုက်ခဲ့တာ။

ဒါပေမယ့် ကြိုက်တိုင်း လုပ်နေလို့ တော်မလား, ဝါသနာပါတိုင်း လုပ်နေလို့ သင့်မလား, ဘုရားဝိနည်းတော်က ရှိသေးတယ်လေ။

ဘုန်းကြီးတို့တစ်တွေဟာ ဘုရားသားတော်များ ဖြစ်ကြလို့ ကြိုက်တာ ဝါသနာပါတာကို အသာထား၊ ဘုရားစကားအတိုင်း နေကြရမှာ။

တီးတာ မှုတ်တာတို့ မကြိုက်လို့ တားနေတာမှ မဟုတ်ဘဲ, မတော်လို့ တားနေတာ။"

## အာရုံဆို ခုံမင်တတ်ကြတာပေါ့

ဆရာတော်က ရိုးရိုးပင် ဝန်ခံပါသည်၊ ... ပရိယာယ် ဝေ့ဝိုစ် မလုပ်တတ်ပါ၊ သူ၏ ဝမ်းတွင်း သဘာဝကိုလည်း ပီပီသသ ဖော်ထုတ်ပြပါ၏၊ ဝမ်းတွင်း ဆန္ဒနှင့် စောင့်စည်းမှုကဏ္ဍကိုလည်း ဤသို့ပင် သရုပ်ဖော်၍ ကတ္တားခြားပြီးပြပါ၏။

ထို့ကြောင့် ဆက်လက်၍ မိန့်ပြန်သည်။

"ပုထုဇဉ်သားတွေကပဲ, အာရုံဆို ခုံမင်တတ်ကြတာပေါ့၊ သို့သော် မတော်လျှင် တားရမယ်၊ မသင့်လျှင် စောင့်စည်းရမယ်၊ ဒါဟာ သီလပဲပေါ့၊ သီလဆိုတာ ကိုယ်နှင့်နှုတ်ကို စောင့်စည်းရခြင်းပဲ။

တချို့က ပြောတတ်ကြသေးတယ်၊ "ဟန်လုပ်တာပါကွာ"တဲ့၊ ဟုတ်တယ်လေ၊ ဟန်လုပ်တာပေါ့၊ ဝိနည်းဆိုတာ ဟန်လုပ်ရတာပဲ၊ ဟန်မလုပ်ဘဲ စိတ်ထဲ ရှိတဲ့အတိုင်း လျှောက်လုပ်ကုန်ရင် မခက်ပေဘူးလား။

ဒါကြောင့် စိတ်ထဲရှိတဲ့အတိုင်း (မနောကံဖြစ်တဲ့အတိုင်း) အပြင်ဘက်ကို အစွန်းထွက်မလာစေနဲ့၊ ကျူးလွန်တဲ့ ကာယကံ, ကျူးလွန်တဲ့ ဝစီကံ ဖြစ်မလာစေနဲ့လို့ စောင့်စည်းရတာ၊ ဒါ ဟန်လုပ်တာပေါ့, ဒါ သီလပဲ။

ဒီလို ဟန်လုပ်တဲ့ စောင့်စည်းမှု "သံဝရသီလ" တွေ မရှိရင် ခက်မကုန်ပေဘူးလား၊ ပုထုဇဉ်သားတွေဆိုတာ စိတ်ရိုင်းတွေ ကိန်းအောင်းနေတတ်ကြတယ်၊ ဒါတွေကို သီလနှင့် ထိန်းတာပဲ၊ ပညာချွန်းနှင့် အုပ်ရတာပဲ။

ပုထုဇဉ်စိတ်တွေဆိုတာ ဆင်ရိုင်းကြီးတွေလိုပဲ၊ ဒါကို အသိဉာဏ်ပညာနှင့် ထိန်းရတယ်၊ ဝိနည်းပညတ်တွေနှင့် ထူးခတ်ထားရတယ်။

## စောင့်စည်းသလို အကျိုးတွေ ဖြစ်

ဟုတ်ပါသည်, ဆရာတော် အမိန့်ရှိသလိုပင် ရှေးပညာရှိ နီတိဆရာတို့ကလည်း **"ထူးပွတ်မဆိုင်း, စိတ်ဆင်ရိုင်းကို, ထုံးပိုင်းမရှာ, ယဉ်စိမ့်ငှာလျှင်, ပညာထိန်း၍, မိန်းစေမင်း"** ဟူ၍ သတိပေးထားပါသည်။

မနောကံ အတွင်းပိုင်း စိတ်ရိုင်းတွေကြောင့် အပြင်သို့ ပွင့်အန်ပေါက်ကွဲလာပါက ကာယကံ လွန်ကျူးမှု, ဝစီကံ လွန်ကျူးမှုတွေအထိ ဖြစ်တတ်ကြသည်၊ ဤသို့ ဖြစ်တတ်သည်ကို မဖြစ်အောင် ပညာဖြင့် ထိန်း၍ ဝိနည်းဖြင့် ထူးခတ်လိုက်ခြင်းကြောင့် မနိုင်းမဆနိုင်အောင် အကျိုးတွေ ရလာပုံကို ဆရာတော်က ညီတော် နန္ဒမင်းသားကို စံထား၍ ပြတတ်၏၊ မြတ်စွာဘုရား၏ ညီတော် မင်းနန်သည် သာသနာတွင်းသို့ ရောက်လာစက စိတ်မငြိမ်သက် လှပါ၊ ပျော်လည်း မပျော်ပါ၊ ဇနပဒကလျာဏီကို အာရုံထဲက မထွက်နိုင်အောင် စွဲမက် တမ်းတတမြေ့မြေ့ ဖြစ်ခဲ့ရ၏၊ ရင်ထဲမှာလည်း နစ်နေအောင် ဖြစ်ရပာန်တူသည်၊ ထို့ကြောင့် ကိုယ့်ကိုယ်ကို တသသနှင့် သက်န်း လှလှကလေးများကို ဝတ်ပြီးလျှင် မျက်ရေးကလေးများပင် ကွင်းတတ်သည် ဟူ၏။

အဲဒီအခါမှာ နောင်တော်ကြီး မြတ်စွာဘုရားက **ကဒါဟံ နန္ဒ ပဿေယျံ, အာရညံ ပံသုကူလိကံ၊ အညာတုဉ္ဆေန ယာပေန္တံ, ကာမေသု အနပေက္ခိနံ။**

"နန္ဒကိုလေ တောရကျောင်းတွေမှာ နေပြီး, ပံသုကူသင်္ကန်းကြီးများကို ဝတ်လို့, ဆွမ်းခံစားလို့, ကာမဂုဏ်တရားတို့၌ မငဲ့ကွက်ဘဲ နေမယ့်အချိန်ကို ဘယ်တော့များမှ မြင်ရပါ့မလဲ" လို့များတောင် ညည်းညူတမ်းတတော်မူရဖူးတယ်။

အဲ-နောက်တော့လဲ ဝိနည်းကိုယ်ကျင့်တရားတွေနှင့် စောင့်စည်းပြီး နေလာလိုက်တာ ရဟန္တာကို ဖြစ်ကရော၊ အဲသလို ဝိနည်းကျင့်ဝတ်ဟာ နိဗ္ဗာန်အထိ ပို့ပေးနိုင်တယ်။

## ဝိနည်းက နိဗ္ဗာန်အထိ ပို့ပေးနိုင်

"ပရိဝါပါဠိတော်ထဲမှာလဲ မြတ်စွာဘုရားဟောထားတာ ရှိပါတယ်၊ **ဝိနယော သံဝရတ္ထာယ, သံဝရော အဝိပ္ပဋိသာရတ္ထာယ** အစရှိသဖြင့် အဆင့်ဆင့် အကျိုးရပုံတွေ ဟောထားတာ အလွန်အားရစရာ ကောင်းတယ်။

အဲဒီနောက်တော့ အရှင်နန္ဒကို စောင့်စည်းတဲ့နေရာမှာ "တေဒဂ်ဘွဲ့ထူး" ကို ပေးတော့တာပဲ၊ နောင်တော်ကြီးဘုရား ကျေနပ်တော်မူရတယ်" ဤသို့ စသည်ဖြင့် ဆရာတော်က စပ်မိ စပ်ရာ ဥပမာတင်၍ မိန့်မြွက်ဟောပြပါတော့သည်။

ထိုပါဠိတော်၌

* ကိုယ်ကျင့်ဝိနည်းသည် စောင့်စည်းဖို့အကျိုးငှာ, စောင့်စည်းမှုသည် နှလုံး ပူလောင် နောင်တ မဖြစ်ဖို့ရာ,
နောင်တမဖြစ်ခြင်းသည် ဝမ်းမြောက်မှုအနုစား ဖြစ်လို့ရာ,
ဝမ်းမြောက်မှု အနုစားသည် ဝမ်းမြောက်မှု အရင့်စား ဖြစ်ဖို့ရာ,
ဝမ်းမြောက်မှုအရင့်စားသည် ကိုယ်စိတ် ငြိမ်းအေးဖို့ရာ,
ကိုယ်စိတ်ငြိမ်းအေးမှုသည် ကိုယ်စိတ်ချမ်းမြေ့ဖို့ရာ,
ကိုယ်စိတ်ချမ်းမြေ့မှုသည် သမာဓိဖြစ်ဖို့ရာ,
သမာဓိဖြစ်ခြင်းသည် ဟုတ်တိုင်းမှန်စွာသိဖို့ရာ,
ဟုတ်တိုင်းမှန်စွာ သိမှုသည် ငြီးငွေ့ဖို့ရာ,
ငြီးငွေ့ခြင်းသည် မတပ်မက်ဖို့ရာ,
မတပ်မက်ခြင်းသည် လွတ်မြောက်ဖို့ရာ,
လွတ်မြောက်ခြင်းသည် အရဟတ္တမဂ်-ဖိုလ်ဖြစ်ဖို့ရာ,
အရဟတ္တမဂ်-ဖိုလ်သည် နိဗ္ဗာန်ရဖို့ အကျိုးငှာ ဖြစ်၏။

ဤသို့လျှင် ဆရာတော်က ဝိနည်းကိုယ်ကျင့် စောင့်စည်းချင်လာအောင် ပုံသက်သေ အမျိုးမျိုး ဆောင်၍ ဩဝါဒပေးတော်မူတတ်ပါသည်။

* ဝိ၊ ၅၊ ဆ – ၂၈၈။

## အဖေ အမေနဲ့ ကြီးပြင်းခဲ့ရသူ မဟုတ်လို့တဲ့ စည်းကမ်းမပါဘဲနှင့် မကြီးပွားနိုင်

စည်းကမ်းနှင့် ပတ်သက်ပြီး ဆရာတော်က များစွာဆုံးမလေ့ရှိ၏၊ စည်းကမ်းရှိပါလျက် စည်းကမ်းအတိုင်း မလိုက်နာဘဲ နေတဲ့သူတွေကို အပြစ်ပြောခဲ့သလို အစကတည်းက စည်းကမ်းမရခဲ့သူများ၏ သနားစရာအဖြစ် ရင်နာစရာအဖြစ်ကိုလည်း တစ်တစ်ခွခွ ပြောပြတော်မူတတ်၏။

"စည်းကမ်းဆိုတာ နေရာတကာ အရေးကြီးတယ်၊ စားတဲ့ သောက်တဲ့နေရာ စည်းကမ်း, သွားတဲ့ လာတဲ့နေရာ စည်းကမ်း, နေတဲ့ထိုင်တဲ့နေရာ စည်းကမ်း, ပြောတဲ့ ဆိုတဲ့နေရာ စည်းကမ်း, ဝတ်တဲ့ ဆင်တဲ့နေရာ စည်းကမ်း, လုပ်တဲ့ကိုင်တဲ့နေရာ စည်းကမ်း အစရှိသဖြင့် အများကြီးပဲ။

အဲဒီ အားလုံးကို သင်ယူရမှာ, လိုက်နာရမှာ၊ ကြီးပွားချင်ပါတယ်ဆိုတဲ့သူတိုင်း သင်ယူရ, လိုက်နာရမှာပဲ၊ စည်းကမ်းမပါဘဲနှင့် ကြီးပွားတယ်ဆိုတာ မရှိဘူး။

ကြီးပွားတယ်ဆိုတဲ့ သူတွေဟာလည်း စည်းကမ်းနှင့် လာခဲ့ကြတာ။

ဒါကြောင့် ဘုန်းကြီးလည်း ဘုန်းကြီးစည်းကမ်း, လူလည်း လူစည်းကမ်း, လိုက်ကို လိုက်နာရမယ်၊ မလိုက်နာလို့ မဖြစ်ဘူး၊ လိုက်နာပြီး ကြိုးစားရင်လဲ ကြီးပွားရမှာ အမှန်ပဲ။"

## ကြက်သံကို ဗဟိုရ်ပြုခဲ့ရ

ဆရာတော်က ဆက်လက်ပြီး အစကတည်းက စည်းကမ်းမရခဲ့၍ ပျက်ပြားရပုံအကြောင်း ဇာတ်တော်လာ ဝတ္ထုကြောင်းကလေးတစ်ပုဒ်ကို ထုတ်ပြလေ့ ရှိ၏၊ သနားစရာလည်း ဖြစ်၍ ရင်နာစရာလည်း ကောင်းလှသည်။

* ရှေးတုန်းက ဒိသာပါမောက္ခကြီးထံမှာ တက္ကသိုလ်ကျောင်းသားတွေ ၅၀၀ ခန့်လောက် ပညာသင်ယူနေကြသတဲ့၊ အဲဒီ ဆရာကြီးအိမ်မှာ အချိန်မှန် တွန်တတ်တဲ့ ကြက်ဖတစ်ကောင်လဲ ရှိသတဲ့။

အဲဒီတုန်းကတော့ အခုခေတ်လို စက်နာရီတွေကလဲ မရှိသေးတော့ ကျောင်းသားတွေကရော, ဆရာကြီးပါ အဲဒီ ကြက်ဖရဲ့ တွန်သံကိုပဲ နာရီလုပ်ပြီး နေကြရတာကိုး။

အဲဒီ ကြက်ဖကလဲ မှန်မှန်တွန်ပါသတဲ့၊ ညဆိုရင် ၈ နာရီလောက် "သူငယ်အိပ်ဆိတ်ချိန်" ဆိုပြီး တစ်ခါ တွန်တယ်၊ ၉ နာရီလောက်မှာ "သက်ကြီးခေါင်းချ"ဆိုပြီး တစ်ခါ တွန်ပြန်တယ်၊ ၁၀ နာရီလောက်မှာ "မောင်ရင်ပြန်ချိန်"၊ ၁၂ နာရီလောက်မှာ "သန်းခေါင်ကြက်" သူ့အချိန်နှင့်သူ တွန်ပါသတဲ့။

နံနက်စောစော ၄ နာရီလောက်မှာ "သက်ကြီးနိုးထ" ၅ နာရီလောက်မှာ "လယ်တောသွား" နေထွက်တပြိုမှာတော့ "မိုးသောက်ကြက်" လို့ အချိန်မလွဲရအောင် တွန်တတ်ပါသတဲ့။

အဲ-အဲဒီ ကြက်ဟာ တစ်နေ့မှာတော့ နေမကောင်းလို့ ရုတ်တရက် သေဆုံးသွားရှာပါရောတဲ့။

## စည်းကမ်းမဲ့သော အလေအလွင့်

ဒါနဲ့ နောက်တစ်ကောင် ရှာကြတဲ့အခါ သုသာန်ထဲမှာ ထင်းခွေကြရင်း ကြက်တစ်ကောင် ယောင်တောင်တောင်နှင့် လှည့်လည် သွားနေတာကို တွေ့လို့ ဖမ်းလာကြသတဲ့။

ဒါပေမယ့် အဲဒီကြက်ကတော့ အချိန်မမှန်ဘူး၊ ကြက်ချင်းတူပေမယ့် စနစ်ချင်း မတူဘူးတဲ့။

တစ်ခါတလေ အစောကြီး တွန်တတ်တယ်၊ တစ်ခါတလေ အတော်နောက်ကျမှ တွန်တတ်သတဲ့၊

---

* ကော်နိပါတ်, ဇာတ်အဋ္ဌကထာ – ၄၆၁။

ယခင်ကြက်လို စည်းကမ်းမရှိဘူး၊ တွန်ချင်တဲ့အခါ တွန်တာ။

ကျောင်းသားတွေလဲ ယခင်ကြက်လို မှတ်လို့ သူ့တွန်သံ အမှတ်အသားနဲ့ ပညာသင်ကြား ရွတ်အံကြတဲ့အခါ တစ်ခါတလေ စောလွန်းနေရော၊ တစ်ခါတလေတော့လဲ နေမြင့်သွားပြန်ရောတဲ့။

ဒီတွင် "ကြာရင် ခက်ရချေရဲ့၊ ဒီကြက်ကြောင့် တို့တစ်တွေ ဒုက္ခများလှပြီ"လို့ဆိုပြီး တစ်ခါတည်း ရိုက်သတ်, လည်ပင်းကို လိမ်ချိုးပြီး ဟင်းအိုးထဲ ထည့်လိုက်ကြသတဲ့၊ ဒီအကြောင်းကို ဆရာကြီးအား တိုင်ကြားတဲ့အခါ ဆရာကြီးက...

* **အမာတာပိတရ-သံဝဍ္ဎော၊**
**အနာစေရကုလေ ဝသံ၊**
**နာယံ ကာလံ အကာလံ ဝါ၊**
**အဘိဇာနာတိ ကုက္ကုဋော။**

လို့ ဒီကြက်ရဲ့အကြောင်းကို ပြောဆို ရှင်းပြပါသတဲ့။

## သင်ကြားပြသမှု မရခဲ့၍

အဓိပ္ပာယ်က "အယံ ကုက္ကုဋော-ဤကြက်သည်၊ အမာတာပိတရသံဝဍ္ဎော-အမေ အဖေနှင့် ကြီးပြင်းခဲ့ရတာ မဟုတ်ဘူးတဲ့၊ သုသာန်ထဲမှာ ကြီးလာတာ၊ ဆိုလိုတာက စည်းစနစ်နှင့် သင်ပြပေးတဲ့ အမေ အဖေနှင့် ရင်အုပ်မကွာ နေလာထိုင်လာ ကြီးပြင်းလာခဲ့ရတာ မဟုတ်ဘူးတဲ့၊ ဒါ့ကြောင့် သူ့မှာ စည်းကမ်းစနစ် မရှိတာတဲ့။

ပြီးတော့ "အနာစေရကုလေ ဝသံ-ဆရာ့အိမ်မှာ ဆရာ့ကျောင်းမှာ နေလာခဲ့ရတာလဲ မဟုတ်ဘူးတဲ့၊ ဆိုလိုတာက အမေ အဖေနှင့် မနေခဲ့ရ ရှိပါစေ၊ သင်ပြပေးတဲ့ ဆရာသမားထံမှာ နေလာခဲ့ရရင် တော်သေးရဲ့တဲ့၊ အခုတော့ ဆရာသမားရဲ့ သင်ကြား ဆုံးမမှုလဲ သူ့မှာ မရခဲ့ဘူးတဲ့၊ တော်တော် ရင်နာစရာ ကောင်းတယ်၊ သနားစရာလဲ တစ်မျိုးပါပဲ။

ဒါကြောင့် ဒီကြက်ဟာ "ကာလံ ဝါ အကာလံ ဝါ-တွန်ရမယ့် အချိန်အခါ, မတွန်ရမယ့်အချိန်အခါကို၊ န အဘိဇာနာတိ-မသိတတ်ရှာတာ"လို့ ဆရာကြီးက ပြောပြပါသတဲ့။

ဟုတ်တယ်, အရပ်ထဲမှာလဲ ဒီသဘောမျိုးတွေ ရှိတယ်၊ တချို့ စည်းမဲ့ကမ်းမဲ့ ပြောမရ ဆိုမရ, ဂျစ်ကန်ကန်နဲ့ အဲဒါတွေဟာ"အမာတာပိတရ သံဝဍ္ဎော၊ တို့ "အနာစေရကုလေ ဝသံ"တို့တွေပဲ။

တစ်နေရာမှာ ရပ်ကွက်ထဲ သောင်းကျန်းကြလွန်းလို့ အဲဒီသူမျိုးတွေကို ဆိုင်ရာတို့က စာရင်းကောက်ပြီးတော့ စိစစ်မေးမြန်းကြည့်ကြသတဲ့၊ တချို့က အမေမရှိဘူး၊ ငယ်ငယ်ကတည်းက ပထွေးနှင့်နေလာတာ၊ တချို့ကတော့ အဖေမရှိဘူး၊ ငယ်ငယ်ကတည်းက မိထွေးနှင့်နေလာခဲ့တာတဲ့၊ တချို့ကျတော့လဲ ငယ်ငယ်ကတည်းကစပြီး အဖေ အမေ နှစ်မျိုးလုံးနှင့် မနေခဲ့ရဘူးတဲ့၊ ဒီတော့ သူတို့မှာ အာသာဆန္ဒ မပြည့်ခဲ့ရဘူး၊ မိခင် ဖခင် မေတ္တာ အပြည့်အဝ မရခဲ့ဘူးပေါ့၊ စည်းကမ်းစနစ်လဲ မရှိခဲ့ကြဘူး။

တစ်ခါ အမေ အဖေနှင့် မနေခဲ့ရဘူးဘဲ ထားပါဦးတော့၊ ဆရာသမားနှင့် စနစ်တကျ သင်ကြားမှု ရခဲ့ရင်လဲ အတော်သား၊ အဲလိုလဲ မရခဲ့ကြဘူး၊ အခု အဲဒါမျိုးတွေ ပြောနေတာ။

## သာသနာတွင်း အမေ အဖေဆိုတာ

ဤသို့လျှင် ဆရာတော်က ဇာတ်တော်လာ အကြောင်းအရာတို့ကို ပုံသက်သေထုတ်ပြပြီး ယခုကာလ အရပ်ထဲတွင် တွေ့ကြုံရတတ်သော အခြေအနေနှင့် ဟပ်၍ တစ်ထပ်တည်း ဖြစ်နေကြောင်းကို မိန့်မြွက်နေ၏၊ ထို့နောက် သာသနာတွင်းဘက်သို့ လှည့်လာပြန်သည်။

"သာသနာတော်မှာတော့ "ပဗ္ဗဇ္ဇာ ပေါသာ ပဋိသန္ဓိဂ္ဂဟဏသဒိသာ"တဲ့၊ ရှင်ပြုတယ်ဆိုတာ သာသနာတွင်းမှာ ပဋိသန္ဓေ စတင်ယူလိုက်ခြင်းပဲတဲ့၊ ဒါ့ကြောင့် သာမဏေကလေးတွေဖြစ်အောင် ပြုပေးတဲ့ ဥပဇ္ဈာယ်ဆရာတွေဟာ အမေ အဖေနှင့် တူတာပေါ့၊ လက်ဦးဆရာတွေပဲ။

အဲဒီဆရာတွေရဲ့ စနစ်တကျ သင်ပြပေးမှုကို ရခဲ့ရင်လည်း ... "မာတာပိတရသံဝဍ္ဎော - အမေ

* ဇာတကပါဠိ (ပ) – ၂၈၊ ဧကကနိပါတ်, အကာလရာဝိဇာတ်။

အဖေနှင့် ကြီးပြင်းခဲ့ရသလိုပါပဲ၊ ဒါမှမဟုတ် နောက်ပိုင်းကျမှ တွေ့ရတဲ့ နောက်ဆရာတွေက သင်ပြပေးလို့ အဲဒီ သင်ပြမှုကို စနစ်တကျရခဲ့ရင်လည်း "အာစေရကုလေ ဝသံ" ဆရာသမားထံမှာ နည်းခံ သင်ယူခဲ့ရတဲ့သူနှင့်တူတယ်၊ ကောင်းတာပါပဲ၊ တစ်မျိုးမျိုးရရင် တော်တာပဲ။

အခု ကိုရင်တို့ ဦးပဥ္စင်းတို့မှာတော့ ကံကောင်းကြတယ်၊ မိဘနှင့်တူတဲ့ ဥပဇ္ဈာယ်ဆရာတွေ, စာသင်ပေးတဲ့ ဓမ္မာစရိယဆရာတွေနှင့် တွေ့နေကြရတယ်၊ စည်းကမ်းစနစ်တွေလဲ ပေးနေကြတယ်။

ဒါကြောင့်မို့ ကျေကျေနပ်နပ် နှစ်နှစ်ခြိုက်ခြိုက် လိုက်နာကြလို့ ဘုန်းကြီးက သတိပေးနေရတာ၊ စည်းကမ်းစနစ် ရှိကြပါ၊ စိတ်နေစိတ်ထားလဲ ကောင်းကြပါ၊ ကိုယ်ကျင့်သီလလဲ ပြည့်စုံပါစေလို့ ဆုံးမနေရတာ။

အင်မတန် ကံကောင်းကြလွန်းလို့။

## စည်းနှင့်ကမ်းနှင့်နေကြမှ

ဆရာတော်က စည်းကမ်းစနစ်ကို အလေးပေးတော်မူ၏၊ သင်္ကန်းဝတ်ပုံ စည်းကမ်းစနစ်, စားပုံသောက်ပုံ စည်းကမ်းစနစ်, နေရာထိုင်ခင်း စည်းကမ်းစနစ် စသည်ဖြင့် နောက်ဆုံးတွင် ဖိနပ်ချွတ်ပုံ စည်းကမ်းစနစ်ကအစ အလေးထားတော်မူ၏၊ ဖိနပ်ကို ဘယ်တစ်ဖက် ညာတစ်ဖက် မညီမညာ တစ်နေရာစီ ချွတ်ထားလျှင် အလွန်ပင် အပြစ်ပြောတော်မူသည်။

"စည်းကမ်းဆိုတာ လူ့တန်ဖိုးပဲ၊ စည်းကမ်းဆိုတဲ့ ဝေါဟာရစကားလုံးလေးဟာ နှစ်လုံးထဲရှိပေမယ့် အဓိပ္ပာယ်အပြည့် ရှိကြတယ်၊ အခု သီဆိုတီးမှုတ်နေကြတဲ့ တူရိယာဝိုင်းထဲမှာ "စည်း"ဆိုတာ မြင်ဖူးကြမှာပေါ့၊ သူ့အကန့်နဲ့သူ မရောအောင် ခြား-ခြားပေးတဲ့ ပစ္စည်းပဲ၊ ယကွင်းကလေးအသေးစား, သူက ခြား မပေးရင် အကန့်တွေ ရောကုန်မှာပေါ့၊ နားထောင် မကောင်းတော့ဘူး၊ ဒါ့ကြောင့် စည်းဆိုတာရှိရတယ်၊ ဆန်းကျမ်းမှာတော့ "ယတိ"လို့ ခေါ်တယ်၊ ခြားပေးတဲ့ ပစ္စည်းပါပဲ။

"ကမ်း"ဆိုတာကလဲ မြစ်ချောင်းအင်းအိုင်တွေ, ရေကန်တွေ, လယ်ကွင်းတွေမှာ ရှိတယ်၊ ရေတွေကို မဖိတ်မလျှံအောင် မို့မောက်နေတဲ့ ကမ်းဘောင်နဲ့ ထိန်းထားတာပဲ၊ အဲဒါမရှိရင် ရေတွေ ပြန့်ကြဲပြီး စီးချင်ရာ စီးကုန်မှာပေါ့၊ ဒါ့ကြောင့် ကမ်းဆိုတာ ရှိရတယ်။

အဲဒီဥပမာအတိုင်းပဲ လူ့လောကမှာလဲ စည်းတို့ ကမ်းတို့ ရှိရတယ်၊ ကြီးပွားချင်ပါတယ်ဆိုတဲ့ သူတွေဟာ ရှိကို ရှိရတယ်၊ မရှိတဲ့သူဟာ ပြည့်ပြည့်စုံစုံ မကြီးပွားနိုင်ပါဘူး။

## ဒုက္ခိ ဒုက္ခာ ဒုက္ခော တည်း

ဆရာတော်က စည်းနှင့်ကမ်း၏ အဓိပ္ပာယ်ကို တစ်လုံးချင်း ရှင်းပြပြန်သည်၊ ယခုကာလတွင် တီးမှုတ်နေကြသည့် တူရိယာဝိုင်းတို့၌ သတ်မှတ်ထားကြသော နာရီစည်း, ဝါးလတ်စည်း, ကရောင်းစည်းတို့ကို ပြောနေခြင်း ဖြစ်ပါ၏၊ မှန်ပါသည်၊ စည်းနှစ်ချက် ဝါးတစ်ချက်တီးရသော နာရီစည်း, စည်းတစ်ချက် ဝါးတစ်ချက်တီးရသော ဝါးလတ်စည်း, စည်းရော ဝါးရော စုံပြိုင်၍ တီးရသော ကရောင်းစည်းဟူ၍ ရှိကြရာ သူ့ဆိုင်ရာစည်းကို (သူ့ဆိုင်ရာနှင့်သူ) မသုံးဘဲနေလျှင် နားထောင်ကောင်းတော့မည် မဟုတ်ပေ။

ကမ်းတွင်လည်း ထို့အတူပင်, ဆီးတာသော ကမ်းမရှိလျှင် ပျက်စီးဖို့ပင် ဖြစ်တော့၏၊ လူများမှာလည်း ထိုအလားပင် စည်းကမ်းမထားပါက ပျက်ပြား၍ အကြီးအကျယ် ဒုက္ခရောက်နိုင်ကြောင်းကို ရှေးပညာရှိတစ်ဦးက ဤသို့ ဆိုထားသည်။

**၁။ တူရိယာတွင်, စည်းမယှဉ်က, နားဝင်မချို၊**

**၂။ ကမ်းမို ကန်သင်း, မရှိကင်းက, ပျက်ယွင်းပမာ၊**

**၃။ လူတို့မှာလည်း, ဗလာစည်းကမ်း, နေသရမ်းက, ကိုယ်နှမ်းစိတ်ရို့, နောင်ခါသိမည်, ... ဒုက္ခိ ဒုက္ခာ ဒုက္ခောတည်း။**

## အဋ္ဌမဆယ်စုနှစ်

၁၃၃၁-၁၃၃၉



မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသ၏ သက်တော်(၇၅)နှစ်အရွယ်
ကျမ်းစာရေးသား ပြင်ဆင်တော်မူနေပုံ

## လှံ့လစွမ်းအင်၏ အကျိုးဆက်မျှဖြင့်သာ ရပ်တည်ခဲ့ရ

### အကျိုးပေးဖို့ အချိန်ကျ၍လာ

ဆရာတော်၏ သက်တော်မှာ ယခု ၁၃၃၁ ခုနှစ်တွင် ၇၀ ပြည့်၍ လာလေပြီ၊ အများအားဖြင့် "အသက် ၆၀ ကျော်လျှင် ကံပေါ်"ဟူ၍ ဆိုရိုးရှိကြသည်၊ ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်အတွက် အကျိုးပေးမည့် ကုသိုလ်ကံများသည် အသက် ၆၀ ကျော်သောအခါ အချိန်ကျ၍ အကျိုးပေးလာတတ်၏ဟု ဆိုလိုရင်း ဖြစ်ပါလိမ့်မည်၊ သို့သော်လည်း ဆရာတော်မှာ အသက် ၆၀ ကျော်၍ပင် ကံမပေါ်ခဲ့ပါ။

သာသနာတော်၏ အရေးကို မိမိဖြစ်ချင်သလို တွင်တွင်ကျယ်ကျယ် ပြုပြင်၍ မရနိုင်သဖြင့် အားမလို အားမရ ဖြစ်ခဲ့ရခြင်း၊ တစ်ဖက်မှလည်း တပည့်သားမြေးတို့၏ စား ဝတ် နေရေး ပညာရေး ကျန်းမာရေးတို့အတွက် ကြိုးစားခဲ့ရ လုံးပမ်းခဲ့ရ လှုပ်ရှားခဲ့ရ ရင်ပူခဲ့ရခြင်းတို့ကြောင့် "လှံ့လဝီရိယ၏ အကျိုးဆက်မျှဖြင့်သာ ရပ်တည်ခဲ့ရသည်" ဟု ဆိုလျှင် ဆိုနိုင်စရာ ရှိပါသည်၊ ကံပေါ်သည်ဟု ဆိုနိုင်စရာ မရှိပါ။

သို့ရာတွင် ယခုလို အသက် ၇၀ ပြည့်၍လာသောအခါတွင်ကား အကျိုးပေးမည့် ကံများသည် စုပြုံလာသလို ဖြစ်ကြ၏၊ ယမန်နှစ်က စ၍ သံဃာအထုအထည် အင်အားဖြင့် အရပ်ဆယ်မျက်နှာသို့ ပို့သခဲ့သော မေတ္တာစွမ်းအားနှင့် ဗုဒ္ဓါနုဿတိ တန်ခိုးတော်များလည်း ပါပါလိမ့်မည်။

သံဃာတော်များအတွက် ကြောင့်ကြသိပ်မများဘဲ အခက်အခဲ များကို ကျော်လွှားလာနိုင်ခဲ့ပေသည်၊ ယခုနှစ်တွင် ရဟန်း ၉၇ ပါး၊ သာမဏေ ၁၆၃ ပါး၊ ပေါင်း ၂၆၀ ပါးရှိသဖြင့် ယမန်နှစ်ကထက် များစွာ တိုးလာ၏။

### သံဃာတွေ များ၍ များ၍ လာ

သံဃာ တိုးလာလေ သိပ်သိပ်သည်းသည်း ရှိအောင် ပိုမို၍ ဆုံးမဩဝါဒပေးရလေ ဖြစ်၏၊ ဤကဲ့သို့ပြုပြင်ပေးနေသည်ကို တောရပ် တောရွာများမှ ဆရာတော်တို့က သဘောကျကြ၏၊ ကျေနပ်တော်မူကြ၏။

ထို့ကြောင့် သူတို့မှာ ရှိသော တပည့်ငယ် များကို လာရောက် အပ်နှံကြသည်၊ ဤသို့လျှင် ၁၃၃၂ ခုနှစ်၌ ရဟန်း ၁၂၀၊ သာမဏေ ၁၉၁၊ ပေါင်း ၃၁၁ ပါးအထိ ဖြစ်လာသည်။

ဆရာတော်က သံဃာတွေ များလာသော်လည်း ယခုအပိုင်း၌ ထင်ထင်ရှားရှား သံဃာ့ဘုန်းကံကို မြင်လာရသည်က တစ်ကြောင်း၊ မဟာဂန္ဓာရုံ၏ စည်းကမ်းစနစ်ကို ကျေနပ်လက်ခံကြသော ဆရာတော် အများအပြားရှိလာသည်ကို သိရသည်က တစ်ကြောင်းတို့ကြောင့် ရဲရဲကြီး တိုးချဲ့ လက်ခံလာခဲ့၏။

ရှေးကဆိုလျှင် သာမဏေကိုသာ အဓိကထားပြီး ရဟန်းဆိုလျှင် ၃ ဝါ အောက်သာလျှင် လက်ခံခဲ့သည်။

ယခုအခါတွင်ကား သိက္ခာဝါကြီးသော်လည်း (ကျောင်းဘုန်းကြီးပင် ဖြစ်ပစေ) မဟာဂန္ဓာရုံ၏ စည်းကမ်းစနစ်ကို လက်တွေ့ ကျင့်သုံးပြီး အတုယူလိုပါက မည်သူမဆို တစ်လမျိုး၊ နှစ်လမျိုး၊ သုံးလမျိုး လာရောက်နေနိုင်သည်ဟု ခွင့်ပြုလိုက်သောအခါ ...

၁၃၃၃ ခုနှစ် ဝါတွင်း၌ ရဟန်း ၁၃၄၊ သာမဏေ ၂၆၆၊ ပေါင်း ၄၀၀ တိတိအထိ ဖြစ်လာတော့၏။

## သံဃာ ငါးရာကျော် ဖြစ်ပေါ်လာ

သံဃာတော်တွေ များလာသလောက် ဒါယကာ ဒါယိကာမများကလည်း ကြည်ညိုမှုတွေ တိုးလာကြကာ ဆွမ်းကွမ်းဘက်ကရော, အဆောက်အအုံဘက်ကပါ လုံလောက်အောင် ဆောက်လုပ်ထောက်ပံ့ လှူဒါန်းလာကြ၏၊ အံ့သြဖွယ်ပင် ဖြစ်သည်၊ သာသနာတော်၏ ဘုန်းကံ, သံဃာတော်များ၏ ဘုန်းကံသက်သက်ပင်တည်း၊ ဤသို့လျှင် အလှိုင်းတကြီး အရှိန်အဟုန်ကြီးမားစွာဖြင့် တိုး၍ တိုး၍ လာခဲ့ရာ ၁၃၃၄ ခုနှစ်တွင်ကား ရဟန်း ၁၅၈, သာမဏေ ၃၅၂, ပေါင်း ၅၁ဝ ဂါးအထိ ဖြစ်၍ သွားတော့၏၊ ထိုအခါ ဒါယကာ ဒါယိကာမ တို့က "ဂန္ဓာရုံမှာ သံဃာငါးရာကျော်ရှိသည်"ဟု အော်မြည်လာကြကာ ပို၍ပင်သဒ္ဓါထက်လာကြပြန်၏၊ ဘုရားလက်ထက်တော်က သံဃာတော် ငါးရာကျော်ကို မှန်း၍ သံဃိကအဖြစ် ဆွမ်းကပ်ကြ, လှူဒါန်းကြသူတွေ ပို၍ပင် များလာပြန်လေသည်။

## သာသနာတော်ကို ဆရာ–ဒကာ ဦးပဲ့ထမ်းခဲ့ကြခြင်း

### စားရသမျှထဲမှ ခွဲဝေ၍

ဤအပိုင်းသို့ ရောက်လာသောအခါ လူသိလည်း ပို၍ များလာကြပြီဖြစ်၍ အမရပူရသာမက ဟိုက ဒီက ဟိုမြို့ ဒီမြို့တို့ကပါ အနှံ့အပြား ထောက်ပံ့မည့်သူများ ရောက်လာကြသည်။

သို့ရာတွင် နေ့ဆွမ်းအတွက် အမြဲထောက်ပံ့သူကား အမရပူရမြို့ကလေးသာတည်း၊ နေ့စဉ်နေ့တိုင်း အစဉ်အလာကပင် မိမိတို့ စားရသမျှထဲမှ ခွဲဝေ၍ ဆွမ်းကွမ်း တာဝန်ယူလာခဲ့ရသော အမရပူရမြို့ကလေးသည် အံ့သြဖွယ်ကောင်းလှပါ၏။

မဟာဂန္ဓာရုံကျောင်းတိုက်က သံဃာ အစိတ်သုံးဆယ်မျှ ရှိစဉ်ကလည်း မှန်မှန်လောင်းလှူခဲ့ကြ၏၊ လေးငါးဆယ်ရှိလာသောအခါတွင်လည်း ဣန္ဒြေမပျက် လောင်းလှူခဲ့သည်၊ သံဃာ ၁၀၀ ခန့်ရှိလာသောအခါတွင်လည်း မဖြုံလှ၊ တစ်ရာ့ငါးဆယ်နှစ်ရာ ရှိလာသောအခါတွင်လည်း လုံလောက်အောင် ကြိုးစားကြသည်သာ၊ သံဃာသုံးရာ လေးရာတွင်လည်း အရေးမကြီး၊ အခုလို သံဃာတော် ၅၀၀ ကျော်လာသောအခါတွင်လည်း မျှတအောင်ကား ကြိုးစား အားခဲကြသည်သာတည်း။

## မိဘသဖွယ်ကျေးသော မြို့ကလေး

ဤသို့အားဖြင့် ၁၃၃၅ ခုနှစ်တွင်မူ ရဟန်း ၁၇၈, သာမဏေ ၃၇၃, ပေါင်း ၅၅၁ ပါးအထိ ဦးရေတွေ တိုး၍ စံချိန်ကျိုးအောင် ဖြစ်လာရတော့၏၊ ဤမျှများပြား၍ လာလည်း အမရပူရမြို့က လေးကား သဒ္ဓါတရား မတွန့်တိုဘဲ ရဲဝံ့စွာပင် လှူကြလျက်သာတည်း၊ မိခင်သဖွယ် ဖြစ်တော့သည်။

အမှန်စင်စစ် အမရပူရမြို့ကလေးအနေနှင့် ဤသို့ တာဝန်ယူရသည်မှာ မဟာဂန္ဓာရုံတစ်တိုက်တည်းသာမက မင်္ဂလာတိုက် တူမောင်းတိုက် စသော စာသင်တိုက်ကြီးများနှင့် အခြား အခြားသော ကျောင်းကလေးများပါ များစွာ ပါဝင်ကြ၏၊ အားလုံးဆိုလျှင် သံဃာ ၈၀၀ ကျော် ၉၀၀ ခန့်ရှိမည်ဟု ခန့်မှန်းရသည်။

**မှတ်ချက်**။ ။"အမရပူရ"ဆိုရာ၌ မြို့မသာမက ဝန်းကျင်တစ်ခို၌ ရှိကြသော တောင်သမန်, အိုးဖို, ထန်းတော, တံခွန်တိုင်စသော အရှေ့ဘက်မှ ရွာများ၊ အမရပူရ မြောက်ဖျားက ကွက်သစ်ရပ်, ကွမ်းသီးတန်း, ဝါးတန်း စသည်တို့နှင့် အနောက်ဘက်တွင် ... အောက်ကျဉ်းရပ်, ရွှေခဲ, ကြာတန်း, ပန်းပဲ, ယဉ်တော်ရွာ, အနောက် ပေါက်ပေါက်တန်း,

ဆင်ကာ, ရှမ်းကလေးကျွန်း, ရွှေကြက်ယက်နှင့် စကျင်ဝ စသောရွာများ, ရပ်ကွက်များကိုပါ ဆိုလိုပါသည်၊ ကျေးဇူးရှင်များပင် ဖြစ်ကြပေ၏။

ဤသို့လျှင် မြတ်စွာဘုရားက လူသားတို့အတွက် ချမ်းသာသုခရဖို့ရန် တည်ထားခဲ့သော သာသနာ ကို ဆရာသာမဏေတို့က ဦးကထမ်းခဲ့သလို, ဒါယ ကာ ဒါယိကာမတို့ကလည်း ပဲ့က ထမ်းကြသဖြင့် ဝမ်းသာရပေသေးသည်၊ ဤသို့သာ သူ့တာ ကိုယ့်တာ, သူ့ငန်း ကိုယ့်ငန်း ကိုယ်စီကိုယ်င ထမ်းကြပါလျှင် ဘုရားရှင်၏ သာသနာတော်လည်း မနွမ်းနိုင်သေးချေ၊ မြန်မာပြည်၏ မျက်နှာလည်း လန်းဆန်း၍ အစဉ်ထာဝရ အေးချမ်းရမည်သာတည်း။

## ရေတွင်းထဲက ရေများလိုပဲတဲ့

ထိုရွာများမှ ထူးခြားသော အိမ်တစ်အိမ်ကို တွေ့ရပါ၏၊ ထိုအိမ်မှာ ရွှေခဲရွာမှ ဆွမ်းအမကြီး ဒေါ်ဖွားသင်တို့ အိမ်ပင် ဖြစ်ပါသည်၊ ဒေါ်ဖွားသင်တို့ မိသားစုသည် အလွန်ချမ်းသာကြွယ်ဝသူများ မဟုတ်ကြသော်လည်း အလှူအတန်း ရဲလှပါ၏၊ သူတို့၏ စီးပွားရေးကို သူတို့ချည်း မစားသုံးကြပါ၊ သံဃာတော်များနှင့် ခွဲ၍ ဝေ၍ စားသုံးကြပါသည်၊ သူတို့ မိသားစုချည်း မျိုမကျသလို ဖြစ်ဟန်တူပါ၏။

၁၉၄၈ ခုနှစ် လွတ်လပ်ရေး ရပြီးစလောက်ကပင် စတင်၍ တစ်နေ့လျှင် ဆန် နှစ်ပြည်ချက်နှင့် ဟင်းတစ်ခွက်ကို ဦးဦးဖျားဖျား ချက်၍ နံနက်တိုင်း သံဃိကဒါန လောင်းလှူခဲ့ကြသည်ဆို၏၊ မိမိတို့ အိမ်ပေါက်သို့ သံဃာတော်များ ရောက်လာလျှင် စိတ်တစ်မျိုး ရွှင်ခဲ့ရသည်။

ထို့နောက်တစ်ဖန် သဒ္ဓါတရားတွေ ထက်သန်လာသဖြင့် လေးပြည်ချက်နှင့် ဟင်းတစ်မျိုးအထိ တိုး၍ လောင်းလှူကြည့်၏၊ စီးပွားရေးမှာ ထူးခြားပြီး လျော့ပါးမသွားပါတဲ့။

ထိုမှတစ်ဖန် လပေါင်းအတန်ကြာသောအခါ ၆ ပြည်ချက်နှင့် ဟင်းတစ်မျိုး တိုး၍ လောင်းပြန်၏၊ မပင်ပန်းပါ၊ လှူရသည်မှာ အရသာရှိလှပါသည်ဟု ဆိုကြ၏။

"သဒ္ဓါဝမ်းတွင်း, ပေးလှူခြင်းကား, ရခြင်းထက်သာ, ခြိုက်မြိုက်စွာသား"ဆိုသည်မှာ အမှန်ပင် ဖြစ်၏၊ ကိုယ်က ပေးနေရသည်မှာ သူများက ပေးလို့ ရခြင်းထက် သာသည်၊ အရသာရှိသည်ဟု ဆိုလိုပါ၏။

ထို့နောက် ၈ ပြည်ချက်, ထို့နောက် ၁၂ ပြည်ချက် တိုး၍ တိုး၍ လောင်းလှူကြည့်၏၊ ရေတွင်းထဲက ရေများလို "စမ်းရေတွင်းလို" ပြန်၍ ပြန်၍ ပြည့်သည်ဟု ဆိုပါသည်။

ထို့နောက် ၁၆ ပြည်ချက် လောင်းခဲ့၏၊ နောက်ဆုံးတွင်ကား ယုံကြည်မှု အပြည့်အဝဖြင့် တစ်နေ့လျှင် တစ်တင်းခွဲချက်ကို ဟင်းနှင့်တကွ နေ့စဉ် အမြဲရဲရဲကြီး လောင်းလှူခဲ့ကြတော့သည် ဟူ၏။

## ရွှေခဲရွာက မိခင်ကြီး

အလှူ့အမကြီး ဒေါ်ဖွားသင်၏ အိမ်သည် သံဃာတော်များအတွက် အမြဲ တံခါးဖွင့်ပေးသော အိမ် ဖြစ်သွား၏၊ သံဃာတော်များ၏ သုံးစွဲရာ သောက်ရေတွင်းသဖွယ်လည်း ဖြစ်တော့သည်။

ဘုရားလက်ထက်တော်တုန်းက သာဝတ္ထိမြို့က ဝိသာခါ၏ အိမ်အလား သံဃာတော်များ၏ ရင်းနှီးမှုကို ရတော့၏၊ သံဃာတော်များကလည်း အားကိုးကြတော့သည်။

ကိုရင်ကလေးများကဆိုလျှင် ဟိုဟိုဒီဒီ ဆွမ်းခံလှည့်လည်ရန် ပျင်းပါက ဆွမ်းအမကြီး ဒေါ်ဖွားသင်တို့ အိမ်ကို တန်းပြီး သွားလိုက်ကြတော့၏၊ တစ်ပါးစာတော့ အသာကလေး ရလာသည်၊ မိခင်ကြီးသဖွယ် အားကိုးရပေ၏။

ထို့ကြောင့်လည်း သူတို့၏ နှုတ်ဖျားတွင် "ရွှေခဲဒါယိကာမကြီး"ဟူ၍လည်းကောင်း, "ရွှေခဲမိခင်ကြီး"ဟူ၍လည်းကောင်း ခေါ်တွင်နေကြလေတော့သည်၊ ဒါန၏ အကျိုးကား သမုဒ္ဒရာပင်လယ်ထဲက ရေတွေကို ပြည်တောင်းဖြင့် ခပ်၍ တစ်ပြည် နှစ်ပြည် သုံးပြည် လေးပြည် စသည်ဖြင့် ခြင်လျက် မည်မျှများပြားသည်ဟု ရေတွက်ခြင်းငှာ မစွမ်းနိုင်သလို သူတို့ မိသားစုလည်း ရေတွက်၍ မကုန်နိုင်သော အကျိုးတို့ကို ရမည်သာတည်း။

# နောက်ဆုံးခွံ့မယ့် ထမင်းလုတ်ထဲကတောင် ခွဲဝေ၍
## ငါဘုရား သိသလောက် မသိကြလို့သာ

ဒါနနှင့် ပတ်သက်ပြီး...ဘဝသံသရာထဲမှာ မဆင်းရဲရပုံ, မျက်နှာမငယ်ရပုံ, အရာရာ ပြည့်လျှံဖြိုးမောက်ရပုံ, နေရာတကာ ရှေ့တန်းက ပါဝင်ပါဝင်သွားရပုံ, သူများထက် အခွင့်အရေးတွေ ရရသွားပုံတို့ကို မြတ်စွာဘုရားက ကိုယ်တော်တိုင် သိထားတော်မူခဲ့သည်၊ ထို့ကြောင့်လည်း အကြောင်းစပ်လာလျှင် အားရစဖွယ်တွေ ဟောမိန့်တတ်ပါ၏၊ တစ်နေ့ရာတွင်မူ ဤသို့ ဟောမိန့်ထားပါသည်။

* **"ဧဝဉ္စေ ဘိက္ခဝေ, သတ္တာ ဇာနေယျုံ ဒါနသံဝိဘာဂဿ ဝိပါကံ ယထာဟံ ဇာနာမိ, န အဒတွာ ဘုဉ္ဇေယျုံ, န စ နေသံ မစ္ဆေရမလံ စိတ္တံ ပရိယာဒါယ တိဋ္ဌေယျ။"**

"သတ္တဝါတွေဟာ ငါဘုရားလောက် ဒါနရဲ့ အကျိုးတွေကို မသိကြလို့သာ, သိကြမယ်ဆိုရင် ဘယ်သူမှ မဝေ မမျှဘဲနဲ့ စားသုံးမိကြမှာ မဟုတ်ဘူး၊ နှမြောလည်း နှမြောကြမှာ မဟုတ်ဘူး"တဲ့။

"ငါဘုရားလောက်သာ သိကြမယ်ဆိုရင် ထမင်းစားနေတုန်း အလှူခံပုဂ္ဂိုလ် ရောက်လာပါက နောက်ဆုံး ခွံ့မယ့် ထမင်းလုတ်ထဲကတောင် ခွဲဝေ၍ လှူမိကြမှာ"တဲ့၊ "ငါဘုရားက ဒါနရဲ့ မျက်နှာကြီးပုံကို ပြောလို့ မကုန်နိုင်အောင် သိထားတယ်" တဲ့၊ ဤသို့ မိန့်မြွက်တော်မူထားပါသည်။

ဤမိသားစုကော အဘယ်သို့ပါနည်း၊ ဒါန၏ အကျိုးတွေကို ယခုဘဝမှာပင် ပြက်ပြက်ထင်ထင် သိမြင်ထား၍ အားရပါးရ လှူနေကြခြင်းလော, (သို့မဟုတ်) သံသရာစခန်း မပင်ပန်းဘဲ ချမ်းချမ်းမြမြ သွားလာရဖို့ အမတခေမာ ရိက္ခာလက်မှတ် ဖြတ်နေကြခြင်းလော။

နောက်ပိုင်းတွင် မိခင်ကြီးဒေါ်ဖွားသင်က ဒါနသာမက သီလနဲ့ဘာဝနာပါရအောင်ဆိုပြီး မိုးကုတ်ဝိပဿနာမဂ်လာမဂ္ဂင်ရိပ်သာတွင် တရားဝင်နေပါ၏၊ ထိုအခါတွင်လည်း ဝတ်မပျက်ရပါ၊ အိမ်မှာ ကျန်ရစ်သော သမီးကြီး ဒေါ်စောရှင်က ခြေရာ



ဆွမ်းအမကြီးဒေါ်ဖွားသင်နှင့်သမီးဒေါ်စောရှင်

လက်ရာမပျက် ဆက်လက်ပြီး ထမ်းဆောင်လှူဒါန်း လျက်ပင် ရှိပါသေးသည်။

ယခု ၁၃၄၅ ခုနှစ်တိုင် အောင် မိခင်ကြီး ဒေါ်ဖွားသင်က ၈၇ နှစ်၊ သမီးကြီး ဒေါ်စောရှင်က ၅၄ နှစ်ဖြင့် ဒါနများကို အားမရနိုင်အောင် နေ့စဉ် နိစ္စဘတ် မပြတ် ပြုလျက်ပင် ရှိကြပါသေးသည်။

သံသရာခရီးအတွက် သုံးစွဲဖို့ရန် မြှုပ်နှံထားသော ဒါနရွှေအိုးကား မည်သူမျှ မခိုးနိုင်၊ မည်သူမျှ လုယ၍ မယူနိုင်၊ ကိုယ်ပိုင်အစစ် ဖြစ်သည်သာတည်း။

အမရပူရမြို့နယ် တစ်ခွင်တွင် ဤသို့သော စေတနာရှင်များ ရှိခဲ့၍ပင် ရာဇဝင်သမိုင်းတစ်လျှောက် သာသနာထွန်းတောက်ခဲ့သည်ဟု သိနိုင်ရပါတော့သည်။

* ဏ္ဏုတ္တိုဝုတ်ပါဠိတော် – ၂၀၇။

## အဘိဓမ္မာညဝါ ဆရာကြီးဦးအုန်း

ဤသို့လျှင် အမရပူရမြို့ကလေးသည် သံဃာတော်များအား ကျေးဇူးများလှပေ၏၊ ဤသို့ ကျေးဇူးများသည်မှာ ယခုခေတ်သာ မဟုတ်သေး၊ ရှေးတုန်းကပင် စတင်ခဲ့သည်၊ တစ်ချိန်က အဘိဓမ္မာညဝါဘက်တွင် မြန်မာတစ်ပြည်လုံး တုန်လှုပ်ချောက်ချားအောင် ကျော်ကြားခဲ့သော ရဟန်းလူထွက် "ဆရာကြီး ဦးအုန်း" ဆိုသော ပုဂ္ဂိုလ်ထူးတစ်ယောက် အမရပူရတွင် ပေါ်ပေါက်ခဲ့ဖူး၏၊ မင်္ဂလာတိုက်တွင် စာချသည့်သတင်း ကျော်ကြားသည့်အတွက် မြန်မာပြည် တစ်နံတစ်လျားထက် အောက်အရပ်များမှ ရဟန်းသံဃာတော်များ ရောက်လာကြ၍ ဆရာကြီးထံမှာ ညဝါလိုက်ကြသည်၊ ညဝါ အသင်အပြအစီပွားယ်အပြောကောင်းလှ၍ နာမည်ဟိန်းခဲ့သည်။

နာမည်ကြီးသလောက် သံဃာတွေများ၍များ၍ လာသဖြင့် မင်္ဂလာတိုက်သစ်၊ မင်္ဂလာတိုက်ဟောင်း ကျောင်းတိုင်း ဇရပ်တိုင်းတွင် ရဟန်းသံဃာတို့ဖြင့် ပြည့်ကျပ်လျက် နေရာမရ ဖြစ်ခဲ့ကြရ၏၊ အချို့နောက်ကျသော သံဃာများဆိုလျှင် မြို့တောင်ဘက် မယ်ဇယ်ပင်တန်းတစ်လျှောက် အောက်တွင် သပိတ်သက်န်းကလေးများကို ဖြစ်သလိုထားကာ မယ်ဇယ်ပင်များကိုပင် ကျောင်းအဖြစ် အသုံးပြုခဲ့ကြရသည် ဟူ၏၊ ထိုစဉ်ကလည်း သံဃာတော်များ ၈၀၀ ကျော် ၉၀၀ ခန့် စုရုံးမိကြဖူးသည် ဟူသတတ်။

## "ဟောဟန်ကား" ဖုံးလွှမ်းခဲ့

အဘိဓမ္မာညဝါဆိုကြရာတွင် "မည်သည့်တရားကို ဟောတော်မူသည်၏ အခြားမဲ့၌ မည်သည့်တရားကို ဟောတော်မူ၏၊ ဟောဟန်ကား" စသည်ဖြင့် ဆိုရ၏၊ ထို"ဟောဟန်ကား"ပုဒ်သည် ခဏခဏ တွေ့ရ၏။

ရဟန်းတော်တို့သည် ညအခါတွင် အလွတ် ဆိုနိုင်ရန် နေ့လယ်စဉ်က သူ့ထက်ငါ ကျက်မှတ်နေကြ၏၊ မင်္ဂလာတိုက် တစ်ဝိုက်ကို ရောက်သွားလျှင် ဟိုနားက"ဟောဟန်ကား" သည်နားက "ဟောဟန်ကား"နှင့်နားက "ဟောဟန်ကား" အသံတွေ များစွာကြားနေရ၏၊ "ဟောဟန်ကား" အသံတွေ တစ်မြို့လုံး ဖုံးနေသလို ဖြစ်တော့သည်။

ထို့ကြောင့် ထိုခေတ်က ပြောဆိုရိုးတစ်ခုပင် တွင်ခဲ့၏၊ "ဟောဟန်ကား"အသံတွေ ကျောင်းခန်းမှာ ကိန်းဝပ်အောင်းခိုနေလို့ "တောင်မြို့က စာသင်တိုက်ကြီးတွေရဲ့ တံခါးပေါက်ကြီးတွေကို ဖွင့်လိုက်ရင် (ဟောဟန်ကား)လို့တောင်" မည်ပါသတဲ့။

(မန္တလေးမြို့ကြီးက အမရပူရမြို့ကို "တောင်မြို့"ဟူ၍ ခေါ်ကြသည်။)

ထိုစကားနှင့် စပ်လျက်ပင် မန္တလေး ရွှေမြို့တော်ကြီးကလည်း သဒ္ဒါအရာမှာ (တောင်မြို့က ညဝါ) လိုပဲ ကျော်ပါသတဲ့၊ သဒ္ဒါဘက်ကျွမ်းကျင်တဲ့ ဆရာတော်တွေက သဒ္ဒါတွေ ချပို့မှုများလွန်းလို့ အဲဒီက တံခါးပေါက်ကြီးတွေကို ဖွင့်လိုက်ရင်လည်း "တတြာယမာဒိ"လို့ မြည်ပါသတဲ့။

ပခုက္ကူကတော့ ပါဠိတော်ကြီးတွေ, အဋ္ဌကထာဋီကာကြီးတွေ ကျမ်းပေါက်အောင် ချပို့တဲ့နေရာမှာ အစဉ်အလာကပင် ကျော်ကြားခဲ့ပါ၏၊ ချပို့ရင်း ပါဠ်မှား ပါဠ်မှန်ကို ပြင်ဆင်လေ့ ဆုံးဖြတ်လေ့ ရှိပါသတဲ့၊ ဆရာတော်ကြီးများဟာ ကျွမ်းကျင်တတ်မြောက်တော်မူသည့်အတိုင်း ပါဠ်မှားတစ်ခုကို တွေ့ပြီဆိုရင် ရဲရဲကြီးပင် "ပါဠ်ပျက်"လို့ ဆိုလေ့ဆုံးဖြတ်လေ့ရှိပါသတဲ့၊ ထို့ကြောင့် ပခုက္ကူက တံခါးပေါက်ကြီးတွေကို ဖွင့်လိုက်ရင်လည်း "ပါဠ်ပျက်" လို့ပဲ မြည်ပါသတဲ့။

358

## တောင်မြို့ဆွမ်းကား ကြမ်းပါဘိ

ဤကဲ့သို့ တစ်ချိန်တုန်းက သံဃာတော်တွေ များစွာစုမိစဉ်ကလည်း အမရပူရမြို့ကလေးသည် မိမိတို့ စားရသမျှကို ဦးဦးဖျားဖျား သံဃာတော် အရှင်မြတ်တို့အား ဆက်ကပ်ခဲ့ကြသည်သာတည်း၊ "ကောင်းတာ မကောင်းတာ အပထား" သံဃာတော်များကို ဦးစားပေးအနေဖြင့် ခွဲဝေမျှတ ဆက်ကပ်ကြတတ်သည်ကား အမှန်ပင် ဖြစ်၏၊ တစ်ခါသော် ရှင်တော်ဗုဒ္ဓက အနာထပိဏ်သူဌေးကြီးအား အမိန့်ရှိဖူးသည်၊ "အို-အိမ့်ရှင်သူကြွယ်, သင့်အိမ်မှာ သံဃာတော်များကို ဆွမ်းဘောဇဉ်များ ဆက်ကပ်လောင်းလှူ၏လော" "မှန်ပါ, လောင်းလှူပါသည် ဘုရား၊ သို့သော် ဟင်းကတော့ သိပ်မကောင်းလှပါ နေ့စဉ်ကိစ္စဖြစ်၍ ပုန်းရည်ကြီးနီနီကို ကြက်သွန်နှင့်သုပ်၍ ဟင်းလုပ်ပြီး လောင်းလှူပါသည်ဘုရား"

"အိမ့်ရှင်သူကြွယ်...ဆွမ်းကောင်းသည် ဟင်းကောင်းသည်က ပဓာနမဟုတ်ပေ၊ လောင်းလှူသည့်အခါတွင် စေတနာက ဖြူဖြူသန့်သန့်, ပစ္စည်းဥစ္စာက "ဓမ္မိယလဒ္ဓ" တရားသဖြင့် ရလို့, စင်စင်ကြယ်ကြယ်, ချက်ပြုတ်ရာမှာလဲ သန့်သန့်ရှင်းရှင်း, ချဉ်းကပ်ရာတွင် ရိုရိုသေသေ, လှူဒါန်းရာ တွင် လေးလေးစားစား ရှိဖို့သာ အဓိကအရေးကြီးသည်၊ ထိုသို့မဟုတ်လျှင် ကုသိုလ်အကျိုးပေးသည့်အခါ မိမိစည်းစိမ်ကို သုံးဆောင်ခံစားလိုစိတ် မရှိဘဲ ဖြစ်နေတတ်သည်" ဤသို့ အမိန့်ရှိဖူး၏။

အမရပူရ ဒါယကာ ဒါယိကာမတို့သည် ဤဒေသနာတော်ကို အားကျ၍ မိမိတို့ စားရသမျှကို အားရဝမ်းသာ ရက်ရောစွာ လောင်းလှူကြ၏၊ သို့သော် လူး, ပြောင်း, ဂျုံ, ဆတ်တို့လည်း ပါ၊ ရာကျော်,ငစိန်တို့လို မာကြောကြမ်းတမ်း သွားကျိန်းခမန်း ဆန်မျိုးလည်းပါ ဖြစ်ပါလိမ့်မည်၊ ထိုအခါ ကဗျာစပ်ဝါသနာပါသော ကိုယ်တော် ငယ်အချို့က စာချိုးကြသည်ဆို၏၊ ထိုစဉ်က သူတို့ ခံစားချက်အရ လက်စွမ်းပြခဲ့သော ကဗျာလေးတစ်ပုဒ်၏ အပိုင်းအစကို ဤနေရာတွင် ဖော်ပြလိုပါသည်။

**"တောင်မြို့ဆွမ်းဟာ ကြမ်းတာပြောရရင်,**
**လမ်းမှာပေါ်တဲ့ ကျောက်ခဲပမာ၊**
**အရမ်းကာရော မြှောက်ကြိပါလျှင်,**
**ဒေါက်ခနဲသာ မြည်သံကြား၊**
**သုံးဆယ့်နှစ်ချောင်း သွားကျိုးနေတာ,**
**ဘွားဘိုးတွေသာ ကြည့်ကြပါတော့ဗျား"** တဲ့။

ဆိုလိုသည်မှာ တောင်မြို့ဆွမ်းတွေ ကြမ်းလွန်းလို့, လမ်းမှာ ပေါ်တဲ့ ကျောက်ခဲတွေလိုပဲတဲ့၊ အမရပူရမြို့လယ်ခေါင်မှာ မီးရထားသံလမ်းကြီးတစ်ခုက ဖြတ်သန်းသွားလျက် ရှိပါသည်၊ လမ်းတစ်လျှောက်တွင် မီးရထားသံလမ်း ကျောက်ခဲကလေးတွေကို မြင်နေမိရာက ဥပမာတင်စားလိုက်ခြင်း ဖြစ်ဟန်တူပါသည်၊ ဆွမ်းကို မြှောက်ကြိကြည့်ရင် "ဒေါက်ခနဲ" "ဒေါက် ခနဲ"လို့တောင် အသံမြည်နိုင်သတဲ့၊ အမရပူရမြို့က လူတွေ ဘယ်လောက် အစာကြမ်းကြမ်း စားသလဲဆိုရင်တဲ့ အဲဒီမြို့က အဘိုးအဘွားတွေကိုသာ ကြည့်တော့, သွားတွေ ၃၂ ချောင်းစလုံး အကုန်ကျိုးနေကြတာဟာ အစာကြမ်းစားလို့တဲ့။

ဤသို့လျှင် ကိုယ်တော်ငယ်တို့က ဆွမ်းရှင်ကွမ်းရှင်တို့ကို ဘာလိုလို နေအောင် ခနဲ့ထားခြင်း, မခံချင်အောင် တို့ဆိတ်ထားခြင်း, အနေခက်အောင် ခပ်ထေ့ထေ့ကလေး စထားခြင်းဖြစ်သည်၊ စင်စစ်ကား ကိုယ်တော်ငယ်တို့သည်လည်း ဒါယကာ ဒါယိကာမတို့၏ စေတနာ သဒ္ဓါတရားများကို လေးစားလျက်, ကျေးဇူးတင်လျက်, ဝမ်းမြောက်လျက်ပင် ရှိကြပါလိမ့်မည်။

## တောင်သမန်အင်းရိပ်နှင့်မဟာဂန္ဓာရုံကျောင်းတိုက်

### တောင်သမန်အင်းရေပြင်ကြီး

မဟာဂန္ဓာရုံကျောင်းတိုက်ဟူသည်မှာ အဘယ်မှာနည်း၊ အမရပူရမြို့၏ အရှေ့ဘက် မြို့ဦးထိပ် မှာ တည်ရှိ၏၊ ထိုအမရပူရမြို့ဟူသည်ကား အဘယ်အရပ်မှာနည်း၊ မန္တလေးမြို့တော်ကြီး၏တောင်ဘက် ၇ မိုင်အကွာတွင် တည်ရှိသည်၊ သို့ဖြစ်လျှင် "မဟာဂန္ဓာရုံကျောင်းတိုက်သည် မန္တလေးမြို့၏တောင်ဘက်

အရပ်တွင်ရှိသော အမရပူရမြို့၏ အရှေ့ဘက်၌ တည်ရှိသည်"ဟု သိနိုင်တော့၏၊ ကျောင်းတိုက်၏ အရှေ့စပ်၌ကား ပြာလဲ့လဲ့ တောင်သမန်အင်းရေပြင်ကြီးက စင်းစင်းကြီး ကျောခင်းလျက်ရှိပြန်သည်။

တောင်သမန်အင်းရေပြင်ကြီးဆို၍ ဤနေရာ၌ တောင်သမန်လယ်စားမောင်ဖေယံကို အကြောင်းပြုပြီးလျှင် တောင်သမန်ရွာ, တောင်သမန်လယ်, တောင်သမန်အင်းတို့အကြောင်းကို အများအားဖြင့် စိတ်ဝင်စားတတ်ကြ၏၊ သို့သော်လည်း ဤနေရာ၌ကား တောင်သမန်ရေပြင်ကြီးတစ်ခုအကြောင်းကိုသာ အနည်းငယ် ဖော်ပြခွင့် ရှိပေလိမ့်မည်။

တောင်သမန်အင်းရေပြင်ကြီးသည် အမရပူရမြို့၏ အနောက်ဘက် ဧရာဝတီမြစ်မှ အစပြုခဲ့၏၊ ဧရာဝတီမြစ်နှင့် ဆက်စပ်ကာ အမရပူရမြို့၏ တောင်ဘက်သို့ ရောက်လာသည်၊ မြို့၏ တောင်ဘက်မှ အရှေ့စူးစူးသို့ သွားပြီးလျှင် မြို့၏ အရှေ့တောင်ဘက်သို့ ရောက်သောအခါ မြောက်ဘက်သို့ ဦးခေါင်းလည်သွားပြန်၏၊ ထို့နောက် မြို့၏ အရှေ့မြောက်သို့ ရောက်အောင်သွားကာ ရှေးတုန်းက တည်းက တည်ရှိခဲ့သော နန်းမြို့ဟောင်း အုတ်တံတိုင်းသို့ ဆိုက်လေသည်။

ဥပမာဖြင့်ပြောရလျှင် ဤပြာလဲ့လဲ့အင်းရေပြင်ကြီးသည် မိခင်ကြီး၏ ယာလက်မောင်းအသွင် ဖြစ်၏၊ အမရပူရမြို့ကလေးသည် သားကြီးနှင့် တူသည်၊ အရှေ့ဘက်သို့ မျက်နှာမူ၍ ထိုင်ကာ ရင်ခွင်ထဲမှ သားကြီးကို ယာလက်မောင်းဖြင့် သိမ်းကျုံးပွေ့ ပိုက်ထားသော မိခင်ကြီး၏ လက်မောင်းကဲ့သို့ ဖြစ်တော့သည်။



မဟာဂန္ဓာရုံကျောင်းတိုက်အတွင်းသို့ ဝင်လိုက်သည်ဆိုလျှင်

## မိခင်မေတ္တာ နှိုလုံ့ရသူလို

မိခင်၏ ရင်ခွင်, မိခင်၏ လက်မောင်းသည် မေတ္တာစာတ်ဖြင့် အေးမြသလို မိခင်လက်မောင်းပမာ တောင်သမန်အင်းရေပြင်ကြီးသည်လည်း ကြည်လင်အေးမြလှပါ၏၊ မေတ္တာလက်ဖြင့် ပွေ့ဖက်ခံရသော သားသမီးများသည် အပူဘေးမသန်း အေးချမ်းရသလို တောင်သမန်အင်းရေပြင်ကြီးဖြင့် ပွေ့ဖက်ခံရသော အမရပူရမြို့ကလေးသည်လည်း ဘေးရန်မသန်း အေးချမ်းရပါသည်၊ အနောက်ဘက် ဧရာဝတီမြစ်ကြီးသည်ကား သဘာဝမိခင်ကြီးပေတည်း၊ မိခင်ကြီးဧရာဝတီက တောင်သမန်ယာလက်မောင်းဖြင့် သားကြီးအမရပူရကို ပွေ့ဖက်သိမ်းပိုက်ထားသည်ဟု ဆိုလိုပါ၏။

"မဟာဂန္ဓာရုံ"အမည်ရှိသော ကျောင်းတိုက်ကြီးသည် ထိုအင်းရေပြင် မိခင်လက်မောင်းကြီး၏

အတွင်းဘက်မှာပင် တည်ရှိသည်၊ သိမ်းကျုံးပွေ့ပိုက်ခံရသည်တွင် အပါအဝင် ဖြစ်၏၊ ကျောင်းတိုက်၏ အကျယ်အဝန်း မြေအပြင်ကား ယခုအခါ ၂၅ ဧကခန့်မျှ ရှိလေသည်၊ စိမ်းစိုသော သစ်ပင်ငယ်, ပျိုရွယ်သောပင်လတ်များ, ကြီးမားသော ထနောင်းပင်, မြင့်မောက်သော ကုက္ကိုပင်, အရွက်စိပ်သော မန်ကျည်းပင်, အရိပ်ပြန့်ကျယ်သော ညောင်ပင်ကြီးများဖြင့် ခမ်းနားစွာ တန်ဆာဆင်ထားသလို ဖြစ်တော့သည်၊ အေးမြ၏၊ ချမ်းမြေ့၏၊ တိတ်ဆိတ်၏၊ ငြိမ်သက်၏၊ တောအုပ်မြိုင်ကြီး၏ အလယ်တွင် ရောက်နေရဘိသို့ ထင်ရသည်၊ ပင်ကြီး ပင်ငယ် ခေါင်ဖျားတို့မှ ရွက်နု ရွက်ရင့်တို့၏ လေခတ်သံမျှသာ ကြားရ၏၊ တောပန်း အဖူးအပွင့်တို့ကို တွေ့နိုင်သည်၊ အချို့နေရာတွင် ဝတ်မှုန်ဆင်းရန့်တို့ဖြင့် သင်းပျံ့နေတတ်သေး၏၊ အရည်ကင်ခုတင် ပုဂ္ဂိုလ်တို့အဖို့ ဝနသညာ ရစရာပင် ဖြစ်တော့သည်။

တစ်ခါတစ်ခါတွင် ချိုးကူသံလေးများပင် ကြားရတတ်သေး၏၊ နွေဦးရောက်လျှင်ကား ဥသြသံကလေးများဖြင့် သာယာလှတော့သည်၊ ဟေမာဂနိုင် တောမြိုင် တောတန်း တောစခန်းပမာတည်း၊ လေကောင်း လေသန့် ရေကောင်း ရေသန့်လည်း ရ၏၊ ကြည်နူးဖွယ်ပင် ဖြစ်တော့သည်။

## ဘုရားပေးတဲ့ကျောင်းများ

ထို့ကြောင့်ပင် တစ်ခါတုန်းက တောရကျောင်းဆရာတော်ကြီးတစ်ပါး ရောက်လာ၍ အမိန့်ရှိဖူးသည်၊ "အရှင်ဘုရားတို့ ကျောင်းတိုက်ဥယျာဉ်ကြီးထဲမှာ ကျောင်းတွေ တယ်ပေါပါလား"တဲ့။

အမှန်မှာ ထိုစဉ်က ပြောရလောက်အောင် ကျောင်းလည်း များများစားစား မရှိသေးပါ၊ သို့ဖြစ်၍ "ဘယ်မှာလဲ ဘုရား"ဟူ၍ ပြန်လည်မေးလျှောက်သောအခါ ထိုသစ်ပင်ကြီးတို့ကို လက်ညှိုးညွှန်၍ ပြတော့သည်၊ ဟုတ်ပါ၏၊ ဘုရားပေးသော ကျောင်းတို့ပေတည်း၊ ဘုရားမြတ်စွာက "ရုက္ခမူလ သေနာသနံ နိဿာယ-သစ်ပင်ရင်းတည်းဟူသော ကျောင်းကို မှီခိုအားကိုး၍ နေကြပါ"ဟူ၍ ဆုံးမထားသည် မဟုတ်ပါလော။

ရဟန်းတို့၏ ကျောင်းသည် သစ်ပင်တွေပင်တည်း၊ ထိုမျှလောက်ပင် အရိပ်အာဝါသကောင်းကြ၍ ချမ်းမြကြည်နူးဖွယ် ဖြစ်ကြပါပေသည်။

## အေးရိပ်သာတဲ့ ကျောင်းသခ်မ်း

ဤ ဥယျာဉ်ကျောင်းဝင်းကြီး အလယ်တွင် ရွှေရောင်တဝင်းဝင်းနှင့် မြေပေါက်စေတီကြီးတစ်ဆူလည်း တည်ရှိ၏၊ ထို့ပြင် အစီအစဉ်နှင့်တကွ စနစ်တကျ ဆောက်လုပ်ထားသော ကမ္မဋ္ဌာန်းကျောင်းများ, စာသင်ကျောင်းများ, သံဃာတော်တို့ သီတင်းသုံးကြသည့် အဆောက်အအုံများ, ဆွမ်းစားကျောင်းများ, ကုဋီများ, အုတ်တိုက်များ, သိမ်တိုက်များ, ဇရပ်များ, ကွပ်ပျစ်များ, သောက်ရေအိုးစင်များ သူ့နေရာနှင့်သူ တည်နေလျက် ရှိကြသည်၊ ဤမျှဆိတ်ငြိမ်သာယာသော တောအုပ်ကြီးအတွင်း၌ ဤမျှ များပြားလှသော အဆောက်အအုံတို့ အတွင်း ဝယ် ရာပေါင်းများစွာသော သံဃာတော်တို့ သီတင်းသုံးလျက် ရှိကြသည်၊ ထိုသို့ သံဃာတော်ဦးရေများစွာ သီတင်းသုံးလျက် ရှိကြပါသော်လည်း ကျယ်လောင်သော စကားပြောသံ, ဆူညံသော စာကျက်သံတို့ကို အလျဉ်း မကြားရချေ၊ တိတ်ဆိတ်ငြိမ်သက်လှပါပေသည် စည်းကမ်းများ သေဝပ်၏၊ အုပ်ချုပ်ရေး ပိရိလှသည်၊ ထို့ကြောင့် "ဘုရားလက်ထက်တော်တုန်းက "သံဃာတော် ၁၂၅၀ သီတင်းသုံးသည့် ဇီဝက၏ သရက်ဥယျာဉ်ကျောင်းတိုက်ကြီးနှင့် နှိုင်းရမည်ကဲ့သို့ ဖြစ်တော့သည်"ဟု စာရေးဆရာတို့က မှတ်ချက်ချကြ၏။

ထို့ကြောင့်လည်း ဤဥယျာဉ်ကြီးအတွင်းသို့ ရောက်လာရဖူးသော ကဗျာစာဆိုရှင်တို့က သူတို့၏ ရင်တွင်း၌ ကြည်နူးချမ်းမြေ့ တွေ့ထိခံစားရသော အချက်တို့ကို သူတို့၏ ကလောင်များဖြင့် အောက်ပါ အတိုင်း မှတ်တမ်းတင်၍ သွားကြခြင်း ဖြစ်ပေသည်။

**ဂန္ဓာရုံ, သံယာစုံ ဖော်စဝေလှဖြင့်,**
**ပျော်မွေ့ဖွယ်ကောင်း၊**
**အသီးငယ်ပြာ, အမိရယ် ဘာသာဖြင့်,**
**ဋီကာတွေ ပြာဝေစုအောင်,**
**ထေရ်မဟာလေ စာပေအမှုကို,**
**ပြုစုသည့်ကျောင်း။**



**စအေးမြ၏, ချမ်းမြေ့၏**

## အတွေးနယ်ချဲ့ခဲ့ရသော အင်းရေပြင်ကြီး

ဟုတ်ပါသည်၊ သူတို့ စာရေးဆရာ, ကဗျာဆရာ တွေ မှတ်ချက်ချသလိုပင် အရှင်ဇနကာဘိဝံသ ဆရာတော်၏ ကျောင်းတိုက်ဥယျာဉ်ကြီးကလည်း တိတ်ဆိတ်လှပါ၏၊ သာယာလှပါ၏၊ ထိုမျှမကသေး၊ ဆရာတော်၏ ကျောင်းကလေးပေါ်တွင် မတ်တတ် ရပ်၍ ရေးရသော စာရေးစားပွဲမှ မြောက်ဘက်သို့ မျက်နှာမူပြီး ကြည့်လျှင် ရှေးက နန်းတော်မြို့ရိုး ဟောင်းကြီးကို မြင်နေရသည်၊ တစ်ဖန် အရှေ့ဘက် ကို မျက်နှာမူလိုက်ပြန်လျှင် ပြာလဲ့လဲ့ အင်းရေပြင် ကြီးကို မြင်နေရပြန်၏၊ တစ်ချိန်က စာဆိုတော် မပြလေး အတွေးနယ်ချဲ့ခဲ့ရသော အင်းရေပြင်ကြီး ပေတကား၊ အမရပူရ ရွှေနန်းတော်ကြီးထဲမှ အနောက်နန်းမတော် စာဆိုတော် မပြလေးက အတွေးနယ်ချဲ့ရင်း ငေးရင်းက တပြည်းပြည်း နန်း တော်ကြီးရဲ့ တောင်ဘက်တစ်ခွင် တောင်သမန် အင်း ရေပြင်ကြီးဆီသို့ မျက်နှာလည်သွားခဲ့သည်။

ပြာလဲ့လဲ့အင်းရေပြင်ကြီးက ကျယ်ပြောလှပါဘိ၊ တစ်မျှော်တစ်ခေါ် တစ်လွင်တစ်ပြင်ကြီး, နန်းတော် ပေါ်က အတိုင်းသား မြင်နေရသည်၊ ယင်းကို မိုး လျက် အထက်ဝေဟင် ကောင်းကင်ပြင်ကြီးက လည်း မဆုံးနိုင် မဆနိုင်, ပြာမှောင်သန်း၍ လွမ်း စရာပင်၊ မိုးတွင်းကာလဖြစ်၍ မိုးဖွဲကလေးတို့မှာ ကျဲကျဲပါးပါး ပုလဲလုံးကလေးများလို "မရွာချင့် ရွာချင်" ကျဆင်းနေကြသည်၊ နေရောင်ခြည်နုနု အတွင်း အထင်းသား မြင်နေကြရ၏။

မပြလေးသည် ယင်း မြင်ကွင်းကို ကြည့်၍ ပီတိလွှမ်းကာ လန်းဖြာလာတော့သည်၊ သို့ဖြစ်၍ စာဆိုတော် အနုပညာသည်မလေးပီပီ ဟန်ချီချီနှင့် သေးသွယ်သော သူ့လက်ချောင်းကလေးများကို အသုံးပြုကာ သူ့စံရာ ညောင်စောင်းသလွန်ကို

တို့၍ ထိ၍ အချက်ကျကျ စည်းလိုက်ရင်း သူ့နှုတ်ခမ်းပါးကလေးက တရှုရှု အသံကလေး တဖွဖွ တိုးတိုးသက်သာ ဟလျက် ကြွကြွကလေး စမ်းသပ် သီကုံးနေခဲ့သည်။

"ပြာလွင်လွင်ရောင် မှိုင်းတလဲ့လဲ့,
အာကာပြင်သောင် သိုင်းတချဲ့ချဲ့,
ရွာလာပြန်လဲ တဖွဲ့ဖွဲ့....

ဤသို့လျှင် တစ်ချိန်က မမြကလေး ငေး၍ အတွေးနယ်ချဲ့ခဲ့ရသော အင်းရေပြင်ကြီးပေတကား၊ ယင်းတောင်သမန်အင်းရေပြင်ကြီးကိုပင် ယခုအခါ ဆရာတော် အရှင်ဇနကာဘိဝံသကလည်း ကသိုဏ်းရှု၍ ကြည့်၍ တအိအိဖြင့် စိတ်ကူးကာ အတွေးနယ်ချဲ့ကာ ကျမ်းစာတွေကို ရေးသားနေခဲ့ပြန်လေသည်၊ ဒါ့ကြောင့်များ ကျမ်းစာတွေက ပို၍ ကောင်းနေကြသလော မပြောတတ်။

ဤသို့လျှင် ဤနေရာ ဤဌာနတို့သည် ဆရာတော် အရှင်ဇနကာဘိဝံသအတွက် သက်သက်ဖြစ်လာရသလို ကြုံတွေ့နေရတော့၏။



တိတ်ဆိတ်ငြိမ်သက်

## ဝေဠုဝန်ဥယျာဉ် မြို့င်တွင်းပမာ
### ငါးရာကျော် အခြံအရံသံဃာ

ဤမျှ ကျယ်ဝန်းသော မြေပြင်ပေါ်တွင် စနစ်တကျ ဆောက်လုပ်ထားသော အဆောက်အအုံ အကြီး အငယ် အရွယ် အလတ် ၁၀၀ ကျော် ရှိသည်၊ သံဃာတော်ပေါင်းကား ၅၈၀ ကျော်အထိ ရှိလာသည်၊ ဆရာတော်ထံ ပညာဗဟုသုတဆည်းပူးရန်, နည်းနာနိဿယ ခံယူရန်, လေးတန်သော အရပ်မျက်နှာတို့မှ ရောက်လာဝန်းရံကြသည်၊ ဗျားပိတုန်းတို့ပမာ ပညာဝတ်ရည်ကို စုပ်ယူသယ်ပိုးရန် တရှုန်းရှုန်း ဝိုင်းအုံကြသကဲ့သို့ ဖြစ်တော့၏၊ တစ်နည်းအားဖြင့် ဝိုင်းစက်ရွှန်းအိသော လမင်းကြီးရှိရာသို့ ကောင်းကင်ထဲမှ ကြယ်တာရာကလေးတို့က ဝန်းရံခ၍ နေကြသကဲ့သို့လည်း ဖြစ်တော့၏။

မြတ်စွာဘုရားလက်ထက်တော်တုန်းက အချို့မထေရ်ကြီးများမှာ နောက်လိုက်နောက်ပါ သံဃာတော် ငါးရာ အခြံအရံ ရှိတော်မူကြ၏၊ သို့သော် ထိုမထေရ်ကြီးများမှာ ဦးရေ မများလှပါ၊ အနည်းငယ်မျှသာ တွေ့ရပါသည်၊ ထိုမထေရ်ကြီးများကို (ပဥ္စမတ္တေဟိ ဘိက္ခုသတေဟိ ပရိဝုတော-တပည့်သံဃာ ငါးရာအခြံအရံရှိတော်မူသော)ဟု ဂုဏ်ပြုတော်မူရ၏။

ယခု ကျမ်းပြုအကျော် ဆရာတော် အရှင်ဇနကာဘိဝံသမှာလည်း တပည့်သံဃာ ငါးရာကျော် ဝန်းရံခ၍ နေကြလေပြီ၊ ထို့ကြောင့် ဆရာတော်ကိုလည်း (ပဥ္စမတ္တေဟိ ဘိက္ခုသတေဟိ ပရိဝုတော) ဟုပင် ဂုဏ်ပြု ချီးကျူးရပါတော့မည်၊ ဤဘွဲ့ထူး ဂုဏ်ပုဒ်ကား လက်ရှိရထားပြီးဖြစ်သော "အဂ္ဂမဟာပဏ္ဍိတ" ဘွဲ့ထက်ပင် လေးနက်၍ ခက်ခဲသည်ဟု ဆိုရပေလိမ့်မည်။

## သူတို့အမြင် သူတို့အတွေး

မဟာဂန္ဓာရုံကျောင်းတိုက်သည် အမရပူရမြို့နှင့် အလွန်လည်း မဝေးလှ, အလွန်လည်း မနီးလှပေ၊ ထို့ကြောင့် ဗိမ္ဗိသာရမင်းကြီး စဉ်းစားသော (ဂါမတော နေဝ အတိဒူရေ, န စ အစ္စာသန္နေ) ဟူသော ကျောင်းတိုက်တို့ ရှိအပ်သည့် ဂုဏ်ပုဒ်နှင့် ညီညွတ်တော့သည်၊ ထို့ပြင် (ဂမနာဂမနသမ္ပန္န) အရ သွားလို့ လာလို့ လွယ်ကူသည့် ဂုဏ်ပုဒ်နှင့်လည်း ပြည့်စုံ၏၊ ဤမျှသာ မကသေးပါ, (ဒိဝါ အပ္ပကိဏ္ဏံ, ရတ္တိံ အပ္ပသဒ္ဒံ အပ္ပနိဂ္ဃောသံ) အရ နေ့အခါ လူတို့နှင့် မရောပြွမ်းခြင်း, ညအခါ မြို့ရွာ ဆူညံမှုမရှိခြင်းစသော ကောင်းမြတ်သည့် ဂုဏ်အင်တို့နှင့်လည်း စုံလင်နေတော့သည်။

ဤမျှ အနေအထားလှပ, အချိုးအဆစ်ကျသော ကျောင်းတိုက်ဥယျာဉ်ကြီးအတွင်းသို့ ဝင်ကြည့်လျှင် မြက်တစ်ပင် အမှိုက်တစ်ထွေးမျှ မတွေ့ရ၊ အညစ်အကြေး တစ်ကွက်မျှ မမြင်ရ၊ အလွန်သန့်ရှင်းလှ၏၊ တံထွေး ထွေးရက်စရာ, နှပ်ပက်စရာပင် မရှိ၊ ဗုဒ္ဓရှင်ကိုယ်တော်မြတ်၏ အဆုံးအမ "သေနာသနဝတ္တရား"အရကိုယ်စီကိုယ်င ကိုယ့်ကျောင်းဝန်းကျင်တွင် နေ့စဉ် သန့်ရှင်းထားကြသည်၊ တံမြက်လှည်းသည့်အခါဖုံမထအောင်(ဥဒကေန ပရိပ္ဖောသေတွာ သမ္မဇ္ဇိတဗ္ဗံ) အရ ရေဖျန်းပြီးမှ လှည်းထားကြ၏၊ ဤနည်းဖြင့် ကျောင်းတိုက်မြေအပြင်သည် အစဉ်ထာဝရ သန့်ရှင်းနေရတော့သည်။

## သူတို့အမေးနှင့် သူတို့အရေး

ထို့ကြောင့် တစ်ခါတုန်းက ဆိုဗီယက် (ရုရှား)မှ လေ့လာသူ ပါရဂူကြီးနှစ်ဦး မဟာဂန္ဓာရုံကျောင်းတိုက်အတွင်းသို့ ရောက်လာဖူးရာ သူတို့က မေးကြ၏၊ "ဒီမျှ ကျယ်ဝန်းတဲ့ ကျောင်းတိုက်ကြီးထဲမှာ ဒီမျှလောက် သန့်ရှင်းနေအောင် နေ့စဉ်နေ့တိုင်း ဘယ်သူတွေ လာရှင်းပေးပါသလဲ"တဲ့၊ ဤသို့ မေးရသည်အထိ ဖြစ်ပေသည်။

ထို့ပြင်လည်း ဤကျောင်းတိုက်ကြီး၏ ကျယ်ဝန်းပုံ, သန့်ရှင်းပုံ, တိတ်ဆိတ်ပုံ, ချမ်းမြေ့ပုံတို့ကို တစ်ခါတုန်းက သတင်းစာဆရာ, စာရေးဆရာကြီး လူထုဦးလှက အိန္ဒိယပြည်မှ ရာဘင်ဒရာနတ်တဂိုးရဲ့ စိန္တိနိကေတန်ကျောင်းတိုက်ကြီးနှင့် နှိုင်းယှဉ်ပြ၍ ဆောင်းပါးရေးသားဖူးသည်။

"အိန္ဒိယပြည်က ပညာရှိကြီး ရာဘင်ဒရာနပ်တဂိုး၏ စိန္တိနိကေတန်ကျောင်းတိုက်ဥယျာဉ်ကြီးသည် ကျယ်ဝန်းလှ၏၊ မြန်မာပြည်က မန္တလေး-အမရပူရမြို့ အရှင်ဇနကာဘိဝံသ၏ ကျောင်းတိုက်ကြီးသည်လည်း ကျယ်ဝန်းလှပါ၏။

တဂိုး၏ ကျောင်းတိုက်ကြီးသည် သန့်ရှင်းသလို အရှင်ဇနကာဘိဝံသ၏ ကျောင်းတိုက်ကြီးသည်လည်း သန့်ရှင်းလှပါ၏၊ တဂိုး၏ ကျောင်းတိုက်ကြီးသည် တိတ်ဆိတ်သလို အရှင်ဇနကာဘိဝံသ၏ ကျောင်းတိုက်ကြီးကလည်း တိတ်ဆိတ်လှပါသည်။

ဤသို့လျှင် ဂုဏ်ရည်ချင်း ပြိုင်နေကြသော်လည်း တရားဓမ္မဖြင့် ချမ်းမြေ့မှုနှင့် အစစအရာရာ စည်းကမ်းရှိမှုတို့ကား... အရှင်ဇနကာဘိဝံသ၏ ကျောင်းတိုက်ကြီးက ဒေါက်တာ တဂိုး၏ ကျောင်းတိုက်ထက် သာပေသည်" ဤသို့ ရေးဖူးပါ၏။

## သိန်းဖေမြင့်၏မှတ်ချက်မှာ

နာမည်ကျော် စာရေးဆရာ သတင်းစာဆရာကြီး ဦးသိန်းဖေမြင့်ကမူ ဤသို့ မှတ်ချက်ချ ရေးသားဖူး၏။

"ဘုတလင်မှ မန္တလေးသို့ အပြန်တွင် အမရပူရသို့လည်း ရောက်အောင်သွား၍ ဆရာတော် အရှင်ဇနကာဘိဝံသကို ဖူးတွေ့ခဲ့သည်၊ ဆရာတော်၏ ကျောင်းတိုက်အတွင်းသို့ ဝင်လိုက်လျှင်ပင် "သိမ့်" ခနဲ ငြိမ်းချမ်းမှုကို ခံစားရသည်၊ တိတ်ဆိတ်ငြိမ်သက်လှ၏၊ ချမ်းမြေ့သာယာနေ၏၊ သံဃာတော် ၅၀၀ ကျော်ရှိသည်ဟု သိရ၏၊ သို့သော်လည်း သံဃာတော် ၅၀၀ ကျော်နေထိုင်သောကျောင်းတိုက်နှင့် မတူ၊ ဘာသံမျှ မကြားရ၊ တောရကျောင်းကြီးသဖွယ် ဖြစ်တော့သည်၊ စည်းကမ်းကောင်းလှသည်ဟု ကျော်ကြား၏။

ကျောင်းဝင်းမြေကြီးက ကျယ်သလောက်... သစ်ပင် ပန်းမန် ပင်ကြီး ပင်ငယ်တို့ဖြင့် ဝေဆာအုံ့ဆိုင်းလျက်ရှိ၏၊ သို့တစေလည်း မြေတလင်းက သန့်ရှင်းလှပါဘိ၊ အဆောက်အအုံတို့လည်း ကြည်နူးဖွယ်အတိ စနစ်တကျ ရှိလှပါဘိ၊ နေထိုင်ကြသော သံဃာတော်တို့ကလည်း ဗိုင်းကောင်းကျောက်ဖိ ပိရိလှပါဘိ။

ထို့ကြောင့် မြန်မာပြည်ရောက် နိုင်ငံခြားသားဧည့်သည်တို့က "ဗုဒ္ဓဘာသာ မြန်မာဘုန်းတော်ကြီး တစ်ကျောင်းလောက် လေ့လာချင်ပါသည်" ဆိုလျှင် အိမ်ရှင် မြန်မာတို့က အရှင်ဇနကာဘိဝံသ၏ ကျောင်းတိုက်ကို လိုက်၍ ပို့လေ့ရှိကြသည်ဟု ကြားသိရ၏"

ဤသို့ ရေးသားထားလေသည်။

## လေးမြိုင်၏မြင်ကွင်း

စာရေးဆရာ လေးမြိုင်ကမူ သူ့မျက်စိမြင်ကွင်းတွင် ပေါ်ထင်သမျှကို ဤသို့ ဖော်ပြ၏၊ "ဆရာတော် အရှင်ဇနကာဘိဝံသ၏ မဟာဂန္ဓာရုံကျောင်းတိုက်ကြီးသည် တည်နေပုံကပင် အချို့သော ကျောင်းတိုက်နှင့် မတူဘဲ မူကွဲ၍ နေ၏၊ တစ်မူထူးခြား သားနားနေ၏၊ အများအားဖြင့် မြို့ကျောင်းတိုက်များသည် လူနေရပ်ကွက်နှင့် နီးကပ်ကြ၏၊ လူနေအိမ်ခြေနှင့် ဝင်းခြံ စည်းရိုး ခြားရုံမျှသာ အချို့ တည်ရှိကြ၏။

မဟာဂန္ဓာရုံ ကျောင်းတိုက်ကြီးကား ထိုသို့ မဟုတ်ချေ၊ လူနေ ရပ်ကွက်နှင့် ဝေးကွာလျက်ရှိသည်၊ တောကျောင်းသဖွယ် ဖြစ်နေ၏၊ မြို့ရွာဆူညံ လူသံ မကြားရ၊ ကျယ်ဝန်းလှသော ကျောင်းတိုက်ကြီးအတွင်း၌ အငယ် အကြီး အသီးသီး ဆောက်လုပ်ထားသော အဆောက်အအုံတို့မှာလည်း စနစ်တကျ ရှိလှ၏၊ သစ်ပင်ပန်းမန်တို့ကလည်း သူ့နေရာနှင့်သူ အနေအထား အကွက်ကျလှ၏၊ ကျောင်းတိုက်ကြီး၏ ဝန်းကျင်တွင် သစ်ပင်ကြီးများက ဝေဝေဆာဆာ မှိုင်းမှိုင်း ညို့ညို့နှင့် အေးဆေးစွာ ရပ်တည်လျက် ရှိကြ၏။

အရှေ့ဘက်ကို မျက်နှာမူလိုက်လျှင် တောင်သမန်အင်းရေပြင်ကြီး, ၎င်းအပေါ် ကျော်၍ ကြည့်လျှင် ရှမ်းရိုးမတောင်တန်းကြီးကို မြင်ရ၏။

တောင်ဘက်ကို လှည့်လိုက်လျှင် နာမည်ကျော် ဦးပိန်တံတားကြီးနှင့် မယ်ဇယ်ပင်တန်းများ,... မြစ်ငယ် စက်ရုံမှ မီးခိုးတလူလူ ခေါင်းတိုင်များကို တွေ့ရ၏။

အနောက်ဘက်တွင်ကား မှီတင်းနေထိုင်ရာ အမရပူရမြို့, ၎င်းကို ကျော်၍ ကြည့်လျှင် ဧရာဝတီမြစ်ရေပြင်နှင့် စစ်ကိုင်းတောင်တန်း။

မြောက်ဘက်စခန်းကို မျှော်၍ ကြည့်ပါက ရွှေးဟောင်း ပုထိုးတော်စေတီကြီးနှင့်အမရပူရ နန်းမြို့ဟောင်း။

ဤသို့ သာမောဖွယ်ကောင်းသော သဘာဝ ရှုခင်းတို့က ဝန်းရံလျက် ရှိကြသည်၊ ထို့ကြောင့်ပင် ကျောင်းတိုက်ကြီးအတွင်းသို့ ရောက်သူအပေါင်းအား ကြည်နူးချမ်းမြေ့သော အတွေ့က ရင်၌ ခွေ့သည်ကို ခံစားကြရလေသည်။

## ပါရဂူ၏ သုံးသပ်ချက်

စာရေးဆရာကြီး ပါရဂူကလည်း သူ၏ ထင်မြင်ချက် တွေ့ရှိချက်တို့ကို ဤသို့ သုံးသပ်ပြသည်။

"ဆရာတော် အရှင်ဇနကာဘိဝံသသည် ဗုဒ္ဓသာသနာတော်ကြီးကို တန်ဖိုးထားသူ, လေးလေးပင်ပင် မြတ်နိုးသူတစ်ပါး ဖြစ်၏၊ ထို့ကြောင့် သာသနာတော်ကြီး ညှိုးနွမ်းသွားမည်ကို စိုးရိမ်တော်မူ၏၊ ကွယ်ပျောက်သွားမည်ကို ရင်တုန်တော်မူ၏၊ ထိုဘေးရန်များမှ ကာကွယ်ဖို့ဆိုလျှင် သာသနာ့ဝန်ထမ်းသား အရည်အသွေး ပြည့်နေကြရန်နှင့် ကိုယ်စီကိုယ်င အလုပ်လုပ်ကြရန် ဖြစ်၏။

သို့အတွက် ဆရာတော်သည် ကျမ်းစာများ ရေးသား၍ သာသနာ့ဝန်ထမ်းသားတို့အား တပ်လှန့်ပေးသည်၊ ကိုယ်တော်တိုင်လည်း လက်တွေ့ အရည်အချင်းပြည့်တပ်သားများ ရရှိရန် ကြိုးပမ်းတော်မူသည်၊ ပလေတိုသည် သူ၏ ကျမ်းစာများတွင် ရေးသားတင်ပြထားသည့် ပညာရေးစနစ်ကို စမ်းသပ်ရန်အတွက် အေသင်မြို့၌ အကယ်ဒမီကျောင်းကြီး ဖွင့်ခဲ့၏။

အိန္ဒိယပြည် ဒေါက်တာတဂိုးသည်လည်း သူ၏ စီမံကိန်းများကို အကောင်အထည် ဖော်နိုင်ရန်အတွက် စိန္တိနိကေတန်ကျောင်းတိုက်ကြီးကို တည်ထောင်ဖွင့်လှစ်၍ စမ်းသပ်ကြည့်ခဲ့၏။

မြန်မာပြည်က ဆရာတော် အရှင်ဇနကာဘိဝံသကလည်း အနာဂတ်သာသနာရေးနှင့် ဘာသာသွေးစသည်တို့၌ စီမံကိန်းချထားသော လုပ်ငန်းရပ်တို့ကို လက်တွေ့ အကောင်အထည် ဖော်နိုင်ရန် မဟာဂန္ဓာရုံကျောင်းတိုက်ကြီးကို စနစ်တကျတည်ထောင်ဖွင့်လှစ်ထားတော်မူသည်"ဟု ရေးသားထား၏။

# မဟာဂန္ဓာရုံ၏ ပုံပန်းအသွင်

## ရေသန့် လေသန့် အနေခံ့ဘိ

ဤသို့ ဤနှယ် တင့်တယ်ဖွယ်ရာတွေ မြင်ရဖို့ရာ လွယ်လွယ်နှင့် ဖြစ်လာသည်ကား မဟုတ်ပါ၊ "ရောမမြို့ကြီးကို တစ်နေ့တည်း အပြီးတည်ဆောက်တာ မဟုတ်ဘူး"ဆိုသော စကားပုံလို ဗုဒ္ဓ၏ အဆုံးအမတော်အရ သေနာသနဝတ္တရားအတိုင်း လပေါင်းများစွာ နှစ်ပေါင်းများစွာ ကိုယ်စီကိုယ်င မှန်မှန် သန့်ရှင်းလာခဲ့ကြသောကြောင့်သာ ဖြစ်ပါသည်။

ဤသို့ သန့်ရှင်းသာယာလာသောအခါ နေထိုင်ရသော ပုဂ္ဂိုလ်များလည်း ချမ်းသာ, ရှုမြင်ရသူတို့လည်း ဝမ်းသာ, သာသနာတော်အတွက်လည်း လန်းဖြာ ဖြစ်ရတော့သည်။

ဤသည်ကို ဂုဏ်ယူကြ၍ တစ်ချိန်သောအခါက စာရေးသူတို့ တပည့်ကြီးများ ကလောင်သွေးသည့်အနေဖြင့် ပါဠိဂါထာ အစီအကုံး ပြိုင်ဖူးကြသည်။

အကြောင်းအရာမှာ "ဤမဟာဂန္ဓာရုံကျောင်းတိုက်ကြီးကို ဖွဲ့ဆိုကြရမည်" ဖြစ်၏။

ဤသို့ သတ်မှတ်ကြပြီးလျှင် ပြိုင်ပွဲဝင် အရှင်တို့သည် ကိုယ်စီ ကိုယ်င ကြိတ်၍ ရေးသားသီကုံးခဲ့ကြသည်။

ထိုထဲမှ ယခု ဖော်ပြလတ္တံ့ ဂါထာသည် ပြိုင်ပွဲဝင် အရှင်မြတ်တစ်ပါး၏ အမြင်ဖြစ်တော့သည်။

ထီးဆောင်း အရှင်စက္ကပါလ၏ လက်စွမ်းပြလက်ရာပင် ဖြစ်၏။

## ဂန္ဓာရုံ၏ဂုဏ်ရည်

**သံသုဒ္ဓေါဒကသမ္ဘာရီ၊ ဝါယုဝါယီ မဟာမဟီ၊**
**ဂန္ဓဂန္ထိ ရမာရာမိ၊ ဂန္ဓာရာမေ သုမင်္ဂလီ။**

ဂန္ဓာရာမေ - ဂန္ဓာရုံဟု၊ ရွှေဘုံသမိုက်၊ တို့ကျောင်းတိုက်ကြီးသည်၊ ယသ္မာ-အကြင့်ကြောင့်၊ သံသုဒ္ဓေါဒကသမ္ဘာရီ-သန့်ရှင်းသောရေ၊ မရှုပ်ထွေးသော အဆောက်အအုံ ရှိ၏၊ တသ္မာ-ထိုသို့ ရေလည်းသန့်သန့်၊ ကျောင်းခံ့ခံ့နှင့်၊ အဟန့်မသေး၊ ဂုဏ်ရောင်မွှေးသည်၏ အဖြစ်ကြောင့်၊ သုမင်္ဂလီ-အရေးထား၍၊ လေးစားထိုက်သော မင်္ဂလာနှင့် ပြည့်စုံပါပေ၏။

ယသ္မာ-အကြင့်ကြောင့်၊ ဂန္ဓာရာမေ-သီလရနံ့၊ တိုက်လုံးနှံ့သဖြင့်၊ မွှေးပျံ့သင်းထုံ၊ တို့ဂန္ဓာရုံတိုက်ကြီးသည်၊ ဝါယုဝါယီ - လေပြည်လေညင်း၊ ရိုက်ဆော်သွင်းက၊ သန့်ရှင်းလတ်ဆတ်၊ ရှုရိုက်အပ်သော လေကောင်းလေသန့်လည်း ရှိပါပေ၏၊ တသ္မာ - ထိုသို့ ရေသန့်လေသန့်၊ အနေခံ့သည်၏ အဖြစ်ကြောင့်၊ သုမင်္ဂလီ-သူလည်းတစ်ဖုံ၊ ဂုဏ်ရောင်မညှိုး၊ အသရေတိုးစေသည့်၊ မင်္ဂလာတစ်မျိုး ပါပေတည်း။

ယသ္မာ-အကြင့်ကြောင့်၊ ဂန္ဓာရာမေ- မသိသူရှား၊ သိသူများ၍၊ ကျော်ကြားဝင့်ဝိုက်၊ တို့ ဂန္ဓာရုံကျောင်းတိုက်ကြီးသည်၊ မဟာမဟီ- ရှေ့နောက်ဝဲယာ၊ ညီညာညက်ညော၊ ပြန့်ပြောခံ့ထည်၊ ပြန့်ကျယ်သော ပထဝီ အချိုးအစားလည်း ရှိပါပေ၏၊ တသ္မာ-ထိုသို့ အနေခံ့ခံ့၊ လေသန့်သန့်နှင့်၊ မြေပြန့်လယ်ခေါင်၊ ရောင်တဝင်းဝင်း၊ အမှောင်ခွင်းလျက်၊ ပြောင်လင်းသော စေတီတော်ဖြင့်၊ တင့်တယ်သော မြေမျက်နှာရှိရာ၏အဖြစ်ကြောင့်၊ သုမင်္ဂလီ-ဘူမိနက်သန်၊ ဘုံမျိုးမှန်သည့်၊ ပွေပျံ့ထွတ်ချာ၊ ကောင်းမြတ်သော မင်္ဂလာကြီးပါပေတည်း။

ယသ္မာ-အကြင့်ကြောင့်၊ ဂန္ဓာရာမေ-ဇေယျာရွှေမြို့၊ ရွှေမြို့မန္တလာ၊ ပွေချက်ချာဝယ်၊ အမရာပူ၊ မွှေးကြူသင်းထုံ၊ တို့ဂန္ဓာရုံတိုက်ကြီးသည်၊ ဂန္ဓဂန္ထိ- မဂ္ဂင်ရှစ်မျိုး၊ သုံးချိုးချိုးက၊ သုံးမျိုးဂန္ထ၊ သီလ တန်ဆာ၊ ပညာလက်နက်၊ ထက်မြက်ထိမိ၊ သမာဓိ ဟူသော လက်ရုံးတို့ဖြင့်၊ ဖွံ့ထုံးအပ်သော ဆရာသမားရှိပါပေ၏၊ တသ္မာ-ထိုသို့ အဂ္ဂမဟာပဏ္ဍိတ်၊ တံဆိပ်နာမံ၊ ရွှေဘွဲ့ခံသည့်၊ အာရာမ်ပိုင်သ၊ သံဃာ့ဦးကင်၊ ထိပ်ခေါင်တင်ဟူသော ဆရာသမားရှိရာ၏အဖြစ်ကြောင့်၊ သုမင်္ဂလီ- ဗိုင်းကောင်းကျောက်ဖိ၊ ပိရိကျစ်လျစ်၊ ချစ်အပ်သော သီလရှိသူတို့ နှစ်မြို့ဖွယ်ရာ၊ မင်္ဂလာကြီးပါပေတည်း။

ယသ္မာ- အကြင့်ကြောင့်၊ ဂန္ဓာရာမေ- စည်းစနစ်ပြင်၊ နည်းသစ်ထွင်သည့်၊ ပြည်ခွင်မကိုင်း၊ တို့ဂန္ဓာရုံကျောင်းတိုက်ကြီးသည်၊ ရမာရာမိ-အရွယ်သုံးစား၊ ပိုင်းမှတ်ခြား၍၊ အများရှင်လူ၊ အကျင့်ဖြူတို့၊ ပျော်သူများစွာ၊ အခွင့်သာအောင်၊ ပျော်ရာပျော်ကြောင်း၊ ဌာနကောင်းကြီး ဖြစ်ပါပေ၏၊ တသ္မာ-ထိုသို့ သူတော်ချင်းချင်း၊ သီတင်းလွှေ့လွှေ့၊ ပေါင်းဖက်မွေ့ရာ၊ ရိပ်သာအောင်စက်၊ ဗဟိုချက်ဖြစ်ခြင်းကြောင့်၊ သုမင်္ဂလီ- တိုင်းအစုံစုံ၊ သမိုင်းတုန်အောင်၊ ဝိုင်းအုံစုဝေး၊ ရှုဒေးလောက်စရာ၊ ဟာ-ယဉ်တကာ့ ယဉ်တကာတွင်၊ မယှဉ်သာ့ မယှဉ်သာအောင်၊ မင်္ဂလမင်္ဂလာကြီး ဖြစ်ပါပေသတည်း။

## ဘာ့ကြောင့် ကျော်ကြား

ဤသို့လျှင် "မဟာဂန္ဓာရုံကျောင်းတိုက်"ဟူသော အမည်သည် မြန်မာပြည်တစ်လွှား၌ ကျော်ကြားရုံသာမက ကမ္ဘာအရပ်ရပ်သို့ပါ သတင်းနံ့၍ သင်းပျံ့ခဲ့လေသည်၊ ဤသို့ သတင်းနံ့၍ သင်းပျံ့ကျော်ကြားရလောက်အောင် ဆရာတော် အရှင်ဇနကာဘိဝံသက မည်သို့ မူချ၍၊ မည်သို့ စီစဉ်၍၊ မည်သို့ တီထွင်၍၊ မည်သို့ ပြုပြင်ခဲ့သည်၊ မည်သို့ ကြိုးစားခဲ့သည်ကိုကား ဆိုင်ရာအခန်းများတွင် အသီးသီး ဖော်ပြထားသည်ကို တွေ့ရပါမည်၊ ဆရာတော်သည် သာသနာကို မြတ်နိုး၏၊ ကြည်ညို၏၊ လေးစား၏၊ ထို့ကြောင့် သာသနာတော်ကြီး အမြဲတမ်း ဂုဏ်တင့်နေစေဖို့သာ အာရုံစူးစိုက်တော်မူသည်၊ ထို့အတူ သာသနာ့ဝန်ထမ်းသား အားလုံးလည်း အမြဲတမ်း ဂုဏ်မြင့်နေစေချင်သည်၊ ထို့ကြောင့် စံနမူနာပြု အနေဖြင့် မဟာဂန္ဓာရုံကျောင်းတိုက်ကြီးကို စနစ်တကျ တည်ထောင်ပြတော်မူ၏၊ ဤကား ယနေ့ မြင်တွေ့နေရသော မဟာဂန္ဓာရုံကျောင်းတိုက်ကြီး၏ ပစ္စက္ခအမြင်ကို တင်ပြနေခြင်းသာတည်း။

## အတိတ်သမိုင်းကို ပြန်၍ကြည့်ချင်

ယနေ့ ပစ္စက္ခဆိုသည်မှာ လွန်ခဲ့သောအတိတ်၏ အနာဂတ်သာတည်း၊ လွန်ခဲ့သောအတိတ်ဆိုသည်မှာလည်း ဆိုင်ရာ ဆိုင်ရာ၏ သမိုင်းကြောင်းပင် ဖြစ်လေသည်၊ လူတို့သည် ပစ္စက္ခအခြေအနေရှိလာပြီဆိုလျှင် အတိတ်ကို ပြန်၍ ကြည့်ချင်လာတတ်၏၊ လေ့လာသမှု ပြုချင်လာတတ်၏၊ ရှေ့သို့ ခရီးပေါက်လာလျှင် နောက်သို့ ပြန်၍ စောင်းငဲ့ကြည့်တတ်သော သဘောကဲ့သို့တည်း။

ယခုလည်း ပစ္စက္ခ မဟာဂန္ဓာရုံကျောင်းတိုက်ကြီး စည်ကား သိုက်မြိုက်လာပုံကို ကြည့်၍ အတိတ် မဟာဂန္ဓာရုံ၏ သမိုင်းကြောင်းကို သိချင်လာကြ၏၊ မည်သို့ ရှိခဲ့လေသနည်း၊ မည်သို့ ပေါက်ဖွား၍ မည်သို့ ကြီးပွားလာခဲ့သနည်း၊ တွေးချင် မေးချင်လာကြ၏။

ထို့ကြောင့် အတိတ် စာမျက်နှာတို့ကို လှန်၍ ပြန်လည် လေ့လာရန် အချိန်တန်လာတော့သည်။

## မဟာဂန္ဓာရုံ၏ အတိတ်သမိုင်းကြောင်း

### တောချုံထဲက ကျောင်းငယ်လေး

အတိတ်ကား မဝေးလှသေးပါ၊ ယခု ၁၃၄၅ ခုနှစ်မှ နောက်ကို ပြန်၍ကြည့်လျှင် လွန်ခဲ့သော နှစ်ပေါင်း ၇၀ ကျော် ၈၀ ခန့်အတွင်းမျှသာ ရှိပါသေး၏၊ ထိုအချိန်ကဆိုလျှင် "နောင်တစ်ချိန်မှာ ဤနေရာ ဤဌာန၌ သာသနာ့ဥယျာဉ်ခြံမြေကြီး တစ်ခု စည်စည်ကားကား ဖြစ်လာလိမ့်မည်"ဟု တစ်စုံတစ်ယောက်က နိမိတ်ဖတ်ပါက မည်သို့မျှ ယုံကြည်နိုင်ဖွယ် မရှိချေ၊ "အဓိပ္ပာယ်မဲ့သော စကားမျိုးကို လျှာအရိုးမရှိတိုင်း ပြောသည်"ဟုသာ အပြစ်တင်ခံရပေလိမ့်မည်။

တစ်နေ့သော နံနက်ခင်းတွင် ဖြစ်၏၊ အမရပူရမြို့ အရှေ့ပိုင်း တရုတ်တန်းရပ်မှ "ဦးဘိုးမင်း" အမည်ရှိ မွန်ရည်သော လူကြီးလူကောင်းတစ်ယောက် လမ်းလျှောက်ထွက်လာသည်၊ နေရောင်ခြည် ဖျန်းသော မြို့၏ အရှေ့ဘက် နခမ်းကို လျှောက်၍ လာရာ တောင်သမန် အင်းစောင်း တစ်လျှောက် ကံအားလျော်စွာ ရောက်သွားမိ၏၊ တမတ်စောက်စောက်ဖြင့် လျှောက်၍လာခဲ့ရာ "ယခု ဂန္ဓာရုံတိုက်တည်ရှိရာ"နေရာသို့ အရောက်တွင် သစ်ပင်မြိုင်အုပ်တို့ အကြား၌ မထင်ရှားသော ထန်းရွက်မိုး ကမ္မဋ္ဌာန်းကျောင်းကလေး တစ်လုံးကို သွား၍ တွေ့တော့သည်။

အနီးသို့ ထပ်မံ ချဉ်းကပ်၍ သွားပြန်သောအခါ ဘုန်းတော်ကြီးတစ်ပါးကိုပါ ဖူးတွေ့ရပြန်၏၊ အခြေအနေကို ရိုသေစွာ မေးလျှောက်သောအခါ တစ်ပါးတည်းနေသော ကမ္မဋ္ဌာန်းဘုန်းကြီးတစ်ပါး ဖြစ်ကြောင်း သိလာရတော့၏၊ ကြည်ညိုစိတ်သဒ္ဓါတရားတဖွားဖွား ဖြစ်ရလေတော့သည်။

ဘုန်းကြီး၏ ဘွဲ့တော်မှာ "ဆရာတော် ဦးပုည" ဟူ၍ ဖြစ်သတတ်။

### ချုံကိုယ်တော် ချုံကိုယ်တော်

ဦးဘိုးမင်းသည် ပစ္စည်းအား သဒ္ဓါအား ပေါများကြွယ်ဝသူဖြစ်၍ နောက်တစ်နေ့တွင် လက်သမားတို့ကို ခေါ်ငင်လာကာ ကျောင်းငယ်တစ်လုံးဆောက်လုပ်လှူဒါန်းရန် စီမံလေတော့၏၊ ဘုန်းတော်ကြီးကား "ဆောက်လိုဆောက်၊ မဆောက်လိုနေ" ဟူသော သဘောမျိုးပင်ဖြစ်သည်၊ မက်မက်မောမော သဘောထားဟန် မတူချေ၊ သူ့တရားကိုသာ သူ မှန်မှန်အားထုတ်တော်မူနေ၏၊ ဤသို့ဖြင့် မကြာမတင် ရက်အတွင်း ပျဉ်ထောင်ပျဉ်ခင်း သွပ်မိုးကျောင်းငယ်ကလေးတစ်လုံး ပြီးစီးသွားတော့သည်။

သို့ဖြစ်လင့်ကစား ဤကျောင်းငယ်ကလေး အပေါ်၌ သင့်တော်ရုံမျှသာ သီတင်းသုံးတော်မူ၏၊ အများအားဖြင့် တောချုံလျှိုကြားတို့၌သာ သွား၍ တစ်ပါးတည်း တရားဖြင့် နေတော်မူတတ်သည်၊ ထို့ကြောင့် ယခင် ယခင်ကပင် ယင်းဘုန်းတော်ကြီးကို "ချုံကိုယ်တော် ချုံကိုယ်တော်"ဟူ၍ ခေါ်ဝေါ်ကြသတတ်၊ ဦးဘိုးမင်းသည် ကြာလေ သဒ္ဓါတရားပွားလေ, ကြာလေ ကြည်ညိုလေဖြစ်၏၊ ထို့ကြောင့် ဇနီးဖြစ်သူ ဒေါ်မနှင့် တိုင်ပင်ကာ ယခု ဖူးတွေ့ရသော စေတီနေရာ၏အရှေ့ဘက်တွင် နှစ်ထပ်တိုက်ကျောင်းတစ်လုံးဆောက်တော့သည်၊ မြေငလျင်လှုပ်၍ ပြိုကျသွား၏၊ ထို့ကြောင့် ထပ်မံ၍ အုတ်နံရံများ တက်ပြန်ရာ အတော်ပြီးခါမှ ဒုတိယအကြိမ် မြေငလျင်ဒဏ် ခံရပြန်သည်၊ အားလုံးပြိုကျကုန်ပြန်၏။

## ကျက်သရေဆောင်စေတီတော်

ထိုအခါ အုတ်တိုက်ကို ဆက်လက် မဆောက်ကြတော့ဘဲ ရပ်နားကာ ယင်းအုတ်တို့ဖြင့် "စေတီဘုရား" တည်ထားကိုးကွယ်ရန် စိမ်ကြတော့သည်၊ အစီအစဉ် ပြောင်းသွားတော့၏။ ဤသို့ဖြင့် ကျောင်းတိုက်အလယ်တွင် ကျက်သရေဆောင်အဖြစ် ယခုဖူးတွေ့နေရသော စေတီတော်ကြီးတစ်ဆူ ဖြစ်ပေါ်လာတော့သည်၊ ရှေးအခါက ထုံးဖြူဖြူမျှဖြင့် သပ္ပာယ်လှခဲ့သလို ယခုအခါတွင်ကား နေခြည်အတွင်းမှာ ရွှေရည်တဝင်းဝင်းဖြင့် အထင်းသားကြည်ညိုဖွယ် ဖူးတွေ့ နေကြရလေပြီ။

ထို့နောက် စေတီတော်မြောက်ဘက်ကပ်လျက် အာရုံခံတန်ဆောင်း ဆောက်လုပ်ခြင်း, စေတီ၏ အရှေ့မြောက်ဘက် ယခု သိင်္ဂီရွှေရည်ကျောင်းနေရာ သိမ်မြေပေါ်၌ နှစ်ထပ် သစ်သားပျဉ်ကျောင်းကြီး ဆောက်လုပ်ခြင်းတို့ဖြင့် ကျောင်းတိုက် သာယာအောင်, မွေ့လျော်ဖွယ် ဖြစ်အောင် ဆက်လက်ကြိုးစားပြန်သည်၊ မည်မျှပင် ဘုန်းတော်ကြီးအား ကျောင်းဒကာကြီးက အဆောက်အအုံတို့ဖြင့် ပြုစုယုယသော်လည်း အချိန်တန်လျှင် ဘုန်းတော်ကြီးကား ချုံအတွင်းသို့ပင် ဝင်မြဲ ဝင်တော်မူသည်သာ။

# နာမည်ဟောင်းမှ နာမည်သစ်သို့

## မဟာဂန္ဓာရုံကျောင်းတိုက်

ဤသို့ နေထိုင်လာခဲ့သည်မှာ ... နှစ်ပရိစ္ဆေဒ အတော်ပင် ကြာညောင်းသွားလေပြီ၊ စစ်ကိုင်းတောင်ရိုးမှ မဟာဂန္ဓာရုံဆရာတော်သည် နွေအခါ ရောက်တိုင်း တောင်ခိုးများထ၍ မျက်စိတွေ ကြည့်မကောင်း ဖြစ်တတ်၏၊ ဝေ၍ နေတတ်သည်။

ထို့ကြောင့် သင့်တော်မည့် နေရာ ရှာဖွေရာ အမရပူရဘက်တွင် ထိုတောကျောင်းနေရာကို တွေ့ကြ၏၊ လက်ရှိဘုန်းတော်ကြီး ဦးပုညအား "ခေတ္တခဏမျှ နွေကာလတွင် နေပါရစေ"ဟု ပန်ကြား၍ ဘုရားစေတီ၏ မြောက်ဘက်နား၌ ထန်းရွက်မိုး ထန်းရွက်ကာ ဝါးကြမ်းခင်း ကမ္မဋ္ဌာန်းကျောင်းကလေးတစ်လုံး ဆောက်လုပ်ကာ သီတင်းသုံးတော်မူလာသည်။

ဘုန်းတော်ကြီး ဦးပုညသည် စစ်ကိုင်းတောင်ရိုးမှ ကြွလာသော မဟာဂန္ဓာရုံဆရာတော်၏ အနေအထိုင်, ကိုယ်ကျင့်စာရိတ္တ, တရားကျင့်ဟန်, သီလ သမာဓိ ပညာတို့ကို ကြည်ညိုအားရတော်မူလှသဖြင့် ဤ အမရပူရ ကမ္မဋ္ဌာန်းကျောင်းတိုက်တစ်ခုလုံးကို လှူတော်မူလေ၏။

အားလုံး ၃ ဧကကျော်ကျော်မျှ ရှိပေမည်၊ အရာရာကို ထောက်ထား၍ မဟာဂန္ဓာရုံ ဆရာတော်ဘုရားကလည်း လက်ခံတော်မူလိုက်၏၊ ထိုအခါမှစ၍ ဤကျောင်းတိုက် အမည်မှာ "မဟာဂန္ဓာရုံ ကျောင်းတိုက်"ဟူ၍ ပြောင်းလွဲလာတော့သည်၊ (စစ်ကိုင်းတောင်ရိုးမှ နာမည်အတိုင်း ဤ အမရပူရဘက်သို့လည်း ကူးပြောင်းထင်ရှားလာခြင်းဖြစ်၏။)

စစ်ကိုင်း မဟာဂန္ဓာရုံဆရာတော်က ကျောင်းတိုက်ကို လက်ခံထားတော်မူသော်လည်း ကိုယ်တော်တိုင်ကား ကြာရှည်လေးမြင့် သီတင်းသုံးခြင်း မပြုပါ၊ ဘုန်းတော်ကြီး ဦးပုညအားပင် လွတ်လွတ်လပ်လပ် စီမံရန်, လွတ်လွတ်လပ်လပ် သီတင်းသုံးပါရန် ပြန်လည် အပ်နှံထားတော်မူသည်။

ထို့ကြောင့် နောက်ပိုင်းတွင် အမရပူရဇာတိသားများ ဖြစ်ကြသည့် ဘုန်းတော်ကြီး ဦးကောဏ္ဍည, ဘုန်းတော်ကြီး ဦးသီလဝံသ တို့ပါ လာရောက်နေခွင့်တောင်းသည်ကို ခွင့်ပြုထားနိုင်ခြင်း ဖြစ်လေသည်။

---

မှတ်ချက်။ ။ စစ်ကိုင်း မဟာဂန္ဓာရုံဆရာတော်သည် ရဟန်းသိက္ခာ ၁၈ ဝါ အရ, သက္ကရာဇ် ၁၂၅၇ ခုနှစ် ဝါဆိုလဆန်း ၄ ရက်နေ့တွင် မန္တလေးမှ စစ်ကိုင်းတောင်သို့ တောထွက်တော်မူလာသည်။

## အဆက်ဆက်ပင် အုပ်ချုပ်လာခဲ့

ဘုန်းတော်ကြီး ဦးပုည ပျံလွန်တော်မူသောအခါ အကြီးအကဲအဖြစ် စောင့်ရှောက်တော်မူဖို့ရန် အတွက် စစ်ကိုင်းဘက်မှ ရန်အောင်မြင်ဆရာတော်၊ ချမ်းအေးချောင်ဆရာတော်၊ အတိသုခဆရာတော် တို့က တစ်လှည့်စီ ကြွလာအုပ်ချုပ်တော်မူကြသည်။

ဤသို့ဖြင့် အတိသုခ ဆရာတော်ဘုရားကြီး နောက်ဆုံး ကြီးကဲ အုပ်ချုပ်တော်မူနေစဉ် ဒုတိယ ကမ္ဘာစစ်ဦးကာလ၌ မန္တလေးမြို့မှ ဤအမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်သို့ နောက်ထပ် ဆရာ တော်တစ်ပါး တိုးလာခဲ့၏၊ ယင်းကား ဘာသာဋီကာ ကျမ်းပေါင်းများစွာကို ပြုစုသွားတော်မူမည့် "အရှင် ဇနကာဘိဝံသဆရာတော်ကလေး"ပင် ဖြစ်တော့ သည်။

အတိသုခဆရာတော်ဘုရားကြီး၊ ဘုန်းတော်ကြီး ဦးကောဏ္ဍညနှင့် ဘုန်းတော်ကြီး ဦးသီလဝံသတို့မှာ စစ်အတွင်း၌ မရှေးမနှောင်း ပျံလွန်တော်မူကုန်ကြ သည်၊ ထို့ကြောင့် ဒုတိယကမ္ဘာစစ်ကြီး အပြီးတွင် ဤအမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်သည် အရှင် ဇနကာဘိဝံသ၏ စီမံအုပ်ချုပ်မှုအောက်သို့ ရောက် လာခဲ့တော့သည်။

အရှင်ဇနကာဘိဝံသသည် သမိုင်းပေးတာဝန် အရ မအုပ်ချုပ်ချင်၍ မဖြစ်၊ မိမိလက်ဝယ်သို့ ရောက်လာသော တိုက်တာကို ကောင်းပင် အုပ်ချုပ်ရ ပေတော့မည်၊ ရှေးယခင်ကမူ ဆရာတော်ဘုရားကြီး တို့၏ အရိပ်ကို ခိုလှုံကာ သံဃာအနည်းငယ်မျှဖြင့် စာချ-စာရေး အေးအေးနေမည်ဟု မှန်းခဲ့၏၊ ယခု သော် တာဝန်တစ်ရပ်အနေဖြင့် ကောင်းအုပ်ချုပ်ရမည့် အခြေသို့ ရောက်လာတော့၏။

တိုက်တာတစ်ခုကို အုပ်ချုပ်ရသော အလုပ်က လည်း သေးလှသည်တော့ မဟုတ်ပေ၊ မျက်စိကိုဖွင့်၊ နားကို စွင့်၍ သင့်တင့်အောင် စီမံနိုင်မှ၊ သဘာဝကျ အောင် ဖန်တီးနိုင်မှ တော်ကာကျသောအလုပ် ဖြစ် သည်၊ မည်သို့ပင်ရှိစေ ရှေ့ဝယ် ရောက်လာသော တာဝန်ကို မလွဲမသွေ ဆောင်ရွက်ရချေတော့မည်။

## ဘယ်လိုနည်းနဲ့မှ အလိုတော်ကျမလဲ

ဆရာတော် အရှင်ဇနကာဘိဝံသ စဉ်းစားရ တော့၏၊ "သာသနာတော်တွင် သာသနာ့ဝန်ထမ်း သားများ နေထိုင်သော ကျောင်းတိုက်သည် မည်သို့ မည်ပုံ ဖြစ်သင့်သလဲ၊ မည်သို့ နေထိုင်ကြမှ အဖ ဘုရားရှင်၏ အလိုတော်ကျ ဖြစ်မလဲ"ဟု စဉ်းစား ရတော့၏။

အဖဘုရားရှင်သည် ဝေနေယျအားလုံးကို ဒုက္ခ ခပ်သိမ်း ငြိမ်းရာ သန္တိသုခဓာတ်သို့ ဆိုက်ကပ်အောင် သွားကြဖို့ လက်ညှိုးညွှန်တော်မူ၏၊ လက်ညှိုးညွှန်ရာ သို့ သွားကြမှလည်း အဖဘုရားရှင်က ကျေနပ်တော် မူမည်၊ ထိုလမ်းသို့ ရောက်အောင်ကလည်း ဝိနည်း ကို လေးစား၍ ပဋိပတ်အကျင့်များဖြင့် နေကြမှ ရောက်နိုင်မည်၊ တစ်ဖန် ရေ မြေ အခြေအနေအရ လည်းကောင်း၊ သီဟိုဠ်စသော ဒေသတို့၌ တည်ခဲ့ရ သော သာသနာကို ထောက်ဆ၍လည်းကောင်း ပဋိပတ်သက်သက်ဖြင့်ချည်းလည်း မပြီးနိုင်သေး၊ ပရိယတ်လည်း ပါဦးမှ သာသနာ အရှည်ခံ၍ တည်တံ့နိုင်မည်၊ သို့ဖြစ်လျှင် အလိုတော်ကျ ကျောင်း တိုက် ဖြစ်နိုင်ဖို့ရာ ပရိယတ် ပဋိပတ် နှစ်မျိုး ရှိစေ ရတော့မည်၊ ဤသို့ စီစဉ်ပြီးလျှင် အရှင်ဇနကာ ဘိဝံသ ဆရာတော်က မဟာဂန္ဓာရုံကျောင်းတိုက်ကို ဝိနည်းအခြေခံလျက် ပရိယတ် ပဋိပတ် နှစ်မျိုးလုံး ပါအောင် စီမံကိန်း ရေးဆွဲခဲ့တော့၏။

အများအားဖြင့် ဖြစ်လေ့ဖြစ်ထ ရှိသည်မှာ စာပေ သင်ကြားမှု ပရိယတ်ဆိုလျှင် ပရိယတ်စာသင်တိုက် သက်သက်သာ တည်ထောင်လေ့ ရှိကြ၏၊ တစ်ဖန် ကျင့်ကြံအားထုတ်မှု ပဋိပတ်ဆိုလျှင် ပဋိပတ် (ရိပ်သာ) သက်သက်သာ တည်ထောင်လေ့ ရှိကြ၏၊ ဆရာတော် အရှင်ဇနကာဘိဝံသမူကား နှစ်မျိုးလုံး ပါအောင် ကြိုးစားသဖြင့် တစ်မူထူးခြားနေတော့ သည်၊ နှစ်မျိုးလုံး ပါစေဖို့ အကြောင်းကလည်း သန္ဓေ ပါလာခဲ့သလို ဖြစ်၏၊ အရှင်ဇနကာဘိဝံသမှာ ပထမ တွင် ပရိယတ်ဆရာတော်ကြီးများနှင့် ကြီးပြင်းလာခဲ့ ရ၍ နောက်သော် စစ်ကိုင်း မဟာဂန္ဓာရုံဆရာတော် စသော ပဋိပတ်ဆရာတော်များ၏ အရိပ်ကို ခိုလှုံ ခဲ့ရသည်၊ ဤသို့ ကံကောင်းခဲ့ရသောကြောင့်ပင် နှစ်မျိုးလုံးကို လေးစားမြတ်နိုး တန်ဖိုးထားနိုင်သော ပုဂ္ဂိုလ် ဖြစ်လာရတော့သည်။

## သာသနာတော်ကို ကြည်ညိုလက်ခံသေး

ဤသို့ ကျောင်းတိုက် တစ်ခုကို "ပရိယတ်၊ ပဋိပတ်" နှစ်မျိုးလုံး ပါသော စနစ်သစ်များဖြင့် ကြိုးစားကြည့်ရာ လွယ်ကူစွာ အောင်မြင်ပါသလော၊ မလွယ်တူပါ၊ ရိုးရာလမ်းမကြီးမှ ဖဲထွက်၍ လမ်းသစ်တစ်ခု ထွင်သည်ဆိုသည်မှာ လွယ်ကူသော ကိစ္စမဟုတ်သကဲ့သို့ ဖြစ်ပါ၏၊ သို့သော်လည်း လွယ်ကူသည် မလွယ်ကူသည်က ပဓာနမဟုတ်၊ သဘာဝကျ-မကျနှင့် ဗုဒ္ဓအလိုတော် ဖြစ်-မဖြစ်ကိုသာ စိစစ်ဖို့လိုသည်ဟု ခံယူထားသည့်အတိုင်း မဆိုင်းသော စိတ်ဓာတ်၊ မလျော့သော ဇွဲတို့ဖြင့် အားခဲကြိုးစားခဲ့ရာ ပတ်ဝန်းကျင်က အားပေးလာသော အခြေသို့ ဆိုက်ခဲ့သည်။

ပြည်ထောင်စု မြန်မာနိုင်ငံ၌ မည်သည့် ဒေသမှာမဆို သာသနာတော်ကို ကြည်ညိုသော စိတ်ဓာတ်ကိန်းဝပ်လျက် ရှိကြပါသေးသည်၊ ကိုယ်ကျင့်တရားကို မိမိကိုယ်တိုင် အပြည့်အဝ လိုက်နာခြင်း မပြုနိုင်ကြစေကာမူ လိုက်နာနိုင်သောသူ၊ ကျင့်သုံးနိုင်သောသူကိုကား ရိုသေမြဲ လေးစားမြဲ အားပေးမြဲ ချီးကျူးမြဲ ရှိကြပါသေးသည်။

ဤအချက်ကို ဆရာတော် အရှင်ဇနကာဘိဝံသက တွေ့သိထား၏၊ သို့ဖြစ်၍ စွမ်းအားရှိသမျှ ဝိနည်းကို လေးစားကာ၊ ကိုယ်ကျင့်စာရိတ္တကို ဦးစားပေးကာ၊ စိတ်ကောင်းနှလုံးကောင်းကို အထွတ်တင်ကာ၊ ဗုဒ္ဓရှင်တော်၏ အလိုဆန္ဒကို ရနိုင်သမျှ ရယူကာ မိမိတာဝန်ယူရသော အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်၌ စမ်းသပ်အားထုတ်ကြည့်ခဲ့သည်။

ဤသို့ စမ်းသပ်အားထုတ်ကြည့်ခဲ့ရာ ဤစနစ်နှင့် ဤခေတ်တွင် မည်မျှလောက် ဘောင်ဝင်၍ မည်မျှလောက် အောင်မြင်ပြီး မည်မျှလောက် ကျေနပ်မှု ရှိကြသည်ကိုကား စိတ်ဝင်တစား အများ၏ လက်ခံမှုအပေါ် အကဲခတ်၍ ဆုံးဖြတ်ရပေတော့မည်။

## တစ်အိုးတည်းစား မြို့ကလေး

တစ်အိမ်လျှင် လူ ၆ ယောက်ကျနှင့် အိမ်ခြေ ၁၀၀ ရှိသော ရွာကလေးတစ်ရွာ (သို့မဟုတ်) လူဦးရေ ၆၀၀ ကျော်ရှိသော ရွာကလေးတစ်ရွာသည် အိုးစား မခွဲဘဲ တစ်အိုးတည်း တစ်အိမ်တည်း အမြဲချက်၍ စားနေကြ၏ဆိုလျှင် အသင် ယုံပါမည်လော။

ပုံပြင်လို ဖြစ်နေ၍ ယုံချင်မည် မဟုတ်ပေ၊ ဘယ်နည်းနှင့်မျှ အသင်ယုံနိုင်မည် မဟုတ်ချေ၊ စိတ်ဓာတ်အမျိုးမျိုး ဝါဒအထွေထွေမို့ "ဘယ်နည်းနှင့်မျှ မဖြစ်နိုင်"ဟု အသင် ယုံနိုင်မည် မဟုတ်ချေ၊ သို့သော် အသင် မယုံချင်နေ၊ တကယ်ဖြစ်၍ အစစ်ရှိနေသည်ကား အမှန်ပင် ဖြစ်၏။

"ဟုတ်ပဲ့မလား၊ အပြောရဲလှချည်လား၊ ဘယ်မှာလဲ၊ ပြစမ်းပါ"ဟု ဆိုလျှင် ယခု စာရေးနေသူက အမရပူရမြို့မှ ဆရာတော် အရှင်ဇနကာဘိဝံသ၏ မဟာဂန္ဓာရုံကျောင်းတိုက်ကို ပြပါမည်။

### ဗုဒ္ဓချမှတ်ခဲ့သော မိသားစုစနစ်

ဟုတ်ပါသည်၊ အမရပူရမြို့ မဟာဂန္ဓာရုံကျောင်းတိုက်သည် တစ်အိုးတည်းစား၊ တစ်ဆရာတည်းသဘော၊ တစ်ဩဇာတည်းနေကျောင်းတိုက် ဖြစ်ပါ၏၊ ကျယ်ဝန်းသော မြေအပြင်တွင် စနစ်တကျ အစီအစဉ်တကျ ဆောက်လုပ်ထားသော အဆောက်အအုံများ ၁၀၀ ကျော် ရှိ၏၊ သစ်သားကျောင်း အနည်းငယ်မှတစ်ပါး အုတ်တိုက်များချည်း ဖြစ်၏၊ တစ်ထပ်တိုက်၊ နှစ်ထပ်တိုက်၊ သုံးထပ်တိုက် အငယ် အလတ် အကြီး အသီးသီး ရှိ၏၊ သန့်ရှင်းတောက်ပနေကြ၏၊ အဝေးမှ လှမ်းကြည့်လျှင် မြို့ကလေးတစ်မြို့ပင် ထင်ရ၏၊ ထို့ကြောင့် တစ်အိုးတည်းစား မြို့ကလေးဟု ဆိုခဲ့သည်၊ သံဃာတော်များမှာ ခြောက်ရာကျော် ခုနစ်ရာနီးပါးမျှ ရှိသည်။

အားလုံးအတွက် တစ်နေရာတည်းမှာ ချက်၍ တစ်နေရာတည်းမှာပင် စုပေါင်းစားသောက်ကြ၏၊ ဘုဉ်းပေးကြ၏၊ ရဟန်း သာမဏေ ဖိုးသူတော် အကုန်စုဝေးကြရ၏၊ ဗုဒ္ဓရှင်တော်မြတ် ချမှတ်ခဲ့သော မိသားစုစနစ် ဖြစ်တော့သည်၊ နေ့စဉ် ဤသို့ပင် စားသောက်နေထိုင်ကြ၏၊ ဤသို့ ဖြစ်လာအောင်နှင့် ဖြစ်နိုင်အောင်ကို ဆရာတော် အရှင်ဇနကာဘိဝံသက မူချ၍ စီမံပေးထား၏၊ အံ့ဩစရာ အားကျစရာ အတုယူစရာပင် ဖြစ်တော့သည်။

## မသေးသော တာဝန်ကြီး

ထို့ကြောင့် ဤပရိသတ်များအတွက် နံနက် အရုဏ်ချက်ရလျှင် တစ်နံနက်စာအတွက် ဆန် ၅ တင်း, စွန်တာနီပဲ ၁ တင်း, ချဉ်ရည်အိုးကြီး ၁ လုံး, ဆီ ၅ ပိဿာ, ငံပြာရည်နှင့်ဆား မျှတအောင် ထည့် ချက်ရသည်၊ နေ့ဆွမ်းအတွက်ဆိုလျှင်ကား ဤနှုန်းမျှ ဖြင့် မရ၊ ထို့ထက် နှစ်ဆပမာဏ များရသည်၊ ညနေ ပိုင်း အဆာပြေ သောက်ရန်အတွက် ထန်းလျက်ရည် ကျိုဖို့ တစ်နေ့ ထန်းလျက် ၂၀ ပိဿာ, ၎င်းနှင့် လျော်အောင်ထည့်ရသော ချင်း, ဆားများ ပါသေး၏၊ နေထိုင်မကောင်းကြလျှင် သင့်လျော်သော ဆေးဝါး ဓာတ်စာများ ကူရသေး၏၊ ဤနည်းအတိုင်း နေ့စဉ် စက်ပတ်လည်၍ နေလေသည်။

ဘုရားသာသနာတော်ကြီးသည် အံ့ဩဖွယ် ကောင်းလှ၏၊ သားသမီး လေးငါးယောက်မျှရှိသော အိမ်ထောင်စုတစ်ခုကို အများနှင့်တန်းတူလိုက်နိုင် အောင် ကြိုးစားရသော မိဘတို့တာဝန်မှာ မသေး ကြောင်း အိမ်ထောင်ရှင်တိုင်း သိကြပါ၏၊ ယခု သံဃာတော်ငါးရာကျော် ခြောက်ရာနီးပါးတို့ကို ကျွေးမွေး စောင့်ရှောက်နေသော ဆရာတော်သည် လည်း မိဘပင် ဖြစ်၏၊ ဤသံဃာတော်တို့၏ စား သောက်ရေး, ဝတ်ရေး နေထိုင်ရေးနှင့် ကျန်းမာ ရေးတို့ကို ဆရာတော်က အားလုံး တာဝန်ယူနေရ၏၊ အဖေကြီး တစ်ဦးပမာ ဖြစ်တော့သည်။

သာမန်ကြည့်လျှင် ဤတာဝန်ကြီးကို ထမ်းဆောင် နိုင်ဖွယ်မရှိဟု ထင်ရ၏၊ သို့သော် ဘုရားအဆုံးအမ, ဘုရားသာသနာတော်၏ အရှိန်အဝါ, သံဃာတော် များ၏ စွမ်းအားကြောင့် အားလုံး ပြေလည်နေကြ ပါသည်။

## သံဃာ့ဘုန်းကံ ဖြိုးမောက်လျှံ

ဆရာတော် အရှင်ဇနကာဘိဝံသက မကြာမကြာ မိန့်တတ်သည်မှာ "ငါ့မှာ သံဃာအနည်းငယ်မျှဖြင့် လုပ်ငန်းစခဲ့စဉ်က အဲဒီသံဃာများရဲ့ စားဝတ်နေရေး အတွက် ရင်မအေးခဲ့ရဘူး၊ တွေးခဲ့ရ ကြံခဲ့ရ ဖန်ခဲ့ရ အမျိုးမျိုး စီမံခဲ့ရတယ်၊ ဟော-အခု သံဃာတွေ များ လာလို့ ပိုပြီး ရင်မောရမလား အောက်မေ့တယ်၊ မဟုတ်ဘူး၊ သူ့ဟာနဲ့သူ ဖြစ်လာတယ်၊ ဒီသံဃာများ ရဲ့ စားဖို့ ဝတ်ဖို့ နေဖို့တွေဟာ အလိုလိုဖြစ်လာတယ်၊ "ဒါဟာ သံဃာ့ဘုန်းကံပဲ, ငါ့ဘုန်းကံ မဟုတ်ဘူး။"

အကယ်၍ ငါ့ဘုန်းကံသာဆိုလျှင် ငါနေဖို့ အတွက် ကျောင်းကြီးကောင်းကောင်း တစ်ကျောင်း လောက်သာ ဆောက်ပေးပြီးလျှင် ပြီးပြီပေါ့၊ အခု တော့ မဟုတ်ပါဘူး၊ ငါမနေနိုင်မှန်း သိရက်နဲ့ တစ် ကျောင်းပြီးတစ်ကျောင်း လာလာ ဆောက်နေကြ တာဟာ သံဃာတွေအတွက် သံဃာတွေ နေဖို့, သံဃာ့ဘုန်းကံပေါ့၊ စားဖို့နဲ့ ဝတ်ဖို့အတွက်လဲ ဒီလို ပါပဲ၊ ဒါ့ကြောင့် "ကောင်းကောင်း နေကြဟဲ့, စိတ် ကောင်း နှလုံးကောင်း ထားကြဟဲ့"လို့ ငါက ခဏ ခဏ သတိပေးနေတာ၊ ဘုရားစကားအတိုင်း ကောင်းကောင်းနေပြီဆိုရင် အခုလိုပဲ အလိုလို ဖြစ် လာတော့တာပေါ့၊ ဒါ့ကြောင့် ဘုရားသာသနာတော် ကြီးဟာ အလွန် အံ့ဩဖို့ ကောင်းပါတယ်လို့"။

## သက်န်းနဲ့ လဲလှယ်ကျွေးခဲ့

တစ်ခါက စာချရင်း ဆရာတော် အမိန့်ရှိခဲ့ဖူး သော အဖြစ်အပျက်ကလေးတစ်ခုလည်း ရှိသေး၏၊ "ငါ့မှာ အစဦးပိုင်းက တပည့်သံဃာက မများသေး ပါဘူး၊ လေးငါးခုနစ်ပါးလောက်ပဲ ရှိပါသေးတယ်၊ ဒီသံဃာလေးကိုပဲ အရုဏ်ဆွမ်းကျွေးရေး မွေးရေး ကိစ္စ ငါ့မှာ တာဝန်ကြီးတစ်ခု, ထီး ဖိနပ် သင်္ကန်းကို တော့ မပြောနဲ့ဦး၊ ငါတတ်နိုင်တာကလဲ ပညာရေး အခမဲ့ သင်ပေးနိုင်တာ တစ်ခုပဲ။

အဲဒီလိုနဲ့ ငါ့မှာ သူတို့ ကျွေးဖို့ မွေးဖို့ ဆန် ဆီ ပဲ ဆိုတာကလဲ ဟိုနားဒီနား အလှူက ရ, တရား ဟောရာက ရ, ဆွမ်းနီးစပ်ရာက လှူလို့ ရတာ လေးတွေ စုဆောင်း ကျွေးနေတာ။

တစ်ခါတော့ ဆန်က ကုန်တော့မယ်၊ ဘယ်က မှလဲ ရဖို့ ရလမ်း မမြင်ဘူး၊ သင်္ကျသီဟအသင်းက ရမှာကလဲ ရက်လိုသေးတယ်၊ ဒီအတွင်း တစ်ပတ် စာလောက် ဆန်က လိုနေတယ်။

"ငါ့မှာ စဉ်းစားလိုက်ရတာလေ, ခေါင်းကို ပူလို့၊ အဲလို ခေါင်းပူအောင် စဉ်းစားတော့မှ သေတ္တာထဲမှာ သိမ်းထားတဲ့ နှစ်ထပ်သက်န်းကြီးတစ်ထည်ကို သွားပြီး သတိရတယ်၊ ဒါနဲ့ ယူပြီး ကပ္ပိယဒကာကို ပြောရတယ်။

"ဒကာ ဘုန်းကြီးမှာ ဒီသင်္ကန်း ပိုနေပါတယ်, ဆန်တော့ အလိုရှိတယ်"လို့ ပြောလိုက်တော့ သူနားလည်ပါတယ်၊ အဲဒီ သင်္ကန်းနဲ့ ဆန်ဖြစ်အောင် လုပ်လာပါတယ်၊ ဒါနဲ့ အဲဒီတုန်းက ပြေလည်သွားရော ဆိုပါတော့"တဲ့။

## ဘုရားမျက်နှာ အမြဲထောက်ခဲ့

ဆရာတော်ဘဝကား စဉ်းစားလျှင် အားငယ်စရာ ဝမ်းနည်းစရာကြီး ဖြစ်၏၊ ဘုန်းကံလည်း နည်းပါးရှာ၏၊ ထို့ကြောင့် မျက်နှာထား တင်းခဲ့ရသည်ဟုလည်း မိန့်တတ်သည်၊ တပည့် သားမြေးတို့အပေါ်တွင် ဤသို့လျှင် "သင်္ကန်းနှင့်လဲ၍" ကျွေးခဲ့မွေးခဲ့ စောင့်ရှောက်ခဲ့သည်၊ ဘုန်းကံ နည်းပါးသဖြင့် ဒါယကာ ဒါယိကာမတို့အား မျက်နှာငယ်ငယ်နှင့် အောက်ကျို့ပြီး တောင်းလိမ့်မည်ဟုကား မထင်လိုက်ပါနှင့်၊ မည်သည့်အခါမျှ မတောင်းခဲ့၊ အူသာလျှင် အပြတ်ခံမည့် ဆရာတော် ဖြစ်သည်။

ခြသေ့်သည် မည်မျှလောက်ပင် ဆာလောင်မွတ်သိပ်သော်လည်း မြက်ခြောက်ကို စားရိုး ထုံးစံမရှိ၊ အစာပြတ်လျှင် မတ်တတ်က အလဲခံမည်ကဲ့သို့, ထို့အတူပင် အရှင်ဇနကာဘိဝံသ ဆရာတော်ကလည်း မတ်တတ်ကသာ အလဲခံမည်၊ "အောက်ကျနောက်ကျခံ၍ ဝိနည်းကို ဖျက်ပြီး ဘုရားမျက်နှာညှိုးအောင် ဘယ်တော့မှ မလုပ်"ဟုလည်း မိန့်တတ်၏၊ ဆရာတော်ကား ဤသို့ ဤနှယ် ဆရာတော်ပါပေ။

ယခုအခါတွင်ကား ဆရာတော် အရှင်ဇနကာဘိဝံသက ဤသို့ မိန့်နေလေပြီ။...

**"ဘုန်းကြီးချင်ရင် ဝိနည်းကို လေးစားပါ။**
**လာဘ်လာဘပေါချင်ရင် ဝိနည်းကို လေးစားပါ။**
**ကျော်ကြားချင်ရင် ဝိနည်းကို လေးစားပါ။**
**အထက်တန်းစားဖြစ်ချင်ရင် ဝိနည်းကို လေးစားပါ။**
**သာသနာပြုချင်ရင် ဝိနည်းကို လေးစားပါ။**
**သုဂတိဘဝ ရချင်ရင် ဝိနည်းကို လေးစားပါ။**
**နိဗ္ဗာန်ရချင်ရင်လဲ ဝိနည်းကိုပဲ လေးစားပါ"**ဟု ခဏ ခဏ တဖွဖွ အမိန့်ရှိတော်မူ၍ နေလေပြီ။

## သာသနာအတွက် ဝန်မတက်စေချင်လို့ မျှတရုံထက် မပိုစေနဲ့

သဒ္ဓါပေါက်သော ဒါယကာ ဒါယိကာမတို့က "မဟာဂန္ဓာရုံကျောင်းတိုက် သံဃာတော်များအား ဆွမ်းကျွေးလိုပါသည်"ဟု လျှောက်ထားလာလျှင် ဆရာတော်က မေးလေ့ စစ်လေ့ ရှိတော်မူတတ်၏၊ "ဘာတွေနဲ့ ဘယ်လို ကပ်ကြမှာလဲ" စစ်မေး၍ များလွန်းနေသည်ကို တွေ့ရလျှင် သင့်တော်ရုံမျှသာ ချန်ထားပြီး ပိုသည်ဟု ထင်သမျှ လျှော့ချပစ်တတ်၏။

တစ်ခါကလည်း မန္တလေးမှ ဒါယိကာမတစ်စု အမရပူရ မဟာဂန္ဓာရုံတိုက်သို့ ရောက်လာကြ၏၊ ဆွမ်းကပ်မည်ဟု ကြိုတင်လျှောက်ထားခဲ့ကြရာ ယခုအခါ အချိန် နီးကပ်လာသဖြင့် အစီအစဉ်ကို လျှောက်ထားရန် နောက်တစ်ခေါက် ရောက်လာကြခြင်း ဖြစ်၏၊ ဆရာတော်က ထုံးစံအတိုင်း စစ်မေးသည်၊ ထိုအခါ ဝမ်းသာအားရဖြင့် သူတို့ စီမံထားသမျှကို လျှောက်ကြတော့၏။

"ဝက်သားကို ပြောင်ချက်တဲ့ ဝက်သားနီချက်က တစ်ခွက်ဘုရား, ရှောက်ရွက် ကြက်သွန်ဖြူ မွှေးမွှေးနဲ့ နူးနူးနပ်နပ် နှပ်ထားတဲ့ အမဲနှပ်က တစ်ခွက်၊ အစ်မကြီးက ပြောတယ်ဘုရား၊ နောက်ထပ် ကြက်သားနဲ့ ဆိတ်ကလီစာ ကြော်ရာ တစ်ခွက်တဲ့, ပြီးတော့ အသား မဘုဉ်းပေးတဲ့ ကိုယ်တော်တွေအတွက် ပဲသီးသုပ်နဲ့ အစိမ်းကြော်,

ဆရာတော့်အဖို့ကတော့ ငါးဖယ်သုပ်"...

ဤမျှလောက် လျှောက်ကာရှိသေး၊ ဆရာတော်က အံ့အားသင့်သော မျက်နှာဖြင့် လက်ကာတော့၏၊ ဟန့်တားတော့၏၊ "နေကြဦး၊ နေကြဦး"...

ဒါယိကာမတို့သည် ပါးစပ်အဟောင်းသားဖြင့် တန့်သွားကြရ၏၊ "ငါတို့လျှောက်တာ ဘာများအမှား ပါသွားပါလိမ့်"ဟူသော မျက်နှာများဖြင့် စောင့်စားငံ့လင့်နေကြရတော့၏၊ ဆရာတော်က ဆက်၍ မိန့်သည်။

"ဘုန်းကြီးတို့ကျောင်းတိုက်မှာ ဒါမျိုး မလုပ်ရဘူး၊ လုပ်ခွင့် မပေးဘူး၊ ဒါယကာ ဒါယိကာမတို့က တတ်နိုင်ပါတယ်ဆိုလဲ အခွင့်မပေးနိုင်ဘူး၊ လိုတာထက် ပိုပြီး ဘာလို့ အကုန်ခံချင်ကြတာလဲ၊ ဒါကြောင့် ဘုန်းကြီးတို့ နိုင်ငံဟာ နာလန်မထူနိုင်တာ၊ ကဲ-ဘုန်းကြီး ခွင့်ပြုမယ်, နားထောင်ကြ၊ "ချိုဖြစ်ဖြစ်, ချဉ်ဖြစ်ဖြစ် အရည်သောက် တစ်ခွက်, အသားနဲ့ အသီးအရွက် ရောတာ တစ်ခွက်, (ရောရမယ်နော်, အသားချည်း သက်သက် ဗြောင်မလုပ်ရဘူး၊ မှတ်မိကြပစေ) ပြီးတော့ ငါးပိ ငံပြာရည်ချက် တစ်ခွက်, တို့စရာ တစ်ခွက်, ဒါပဲ၊ ဒီလေးမျိုးပဲ၊ ဒီထက် မပိုစေကြနဲ့၊ ဒါဆို မျှတပြီ"။

## တစ်နေ့အတွက် ကုန်ကျနှုန်း

ဆရာတော်က တစ်ချက်လွှတ်အမိန့် ချလိုက်သောအခါ ဒါယိကာမတစ်စုသည် သူ့ ကိုယ်ကြည့် ကိုယ့် သူကြည့်နှင့် "ဘယ့်နှယ် လုပ်ကြမလဲ"ဟု မေးသော မျက်လုံးမျိုးဖြင့် အချင်းချင်း အပြန်အလှန် ကြည့်နေကြတော့သည်၊ သို့သော် ဆရာတော့်အမိန့်ကို မည်သူ တော်လှန်ဝံ့အံ့နည်း၊ သဘာဝကျကျ စီမံပြသော ဆရာတော့်အမိန့်ကို မည်သူမျှ မတော်လှန်ဝံ့ကြချေ။

ဆွမ်းကျွေးရက်ရောက်သောအခါ ဤအတိုင်းပင် လေးခွက်မျှဖြင့် ကျွေးကြရတော့သည်၊ နောက်ပုဂ္ဂိုလ် နောက်ပုဂ္ဂိုလ်များလည်း ဤပုံအတိုင်းပင် ဟင်းလေးခွက်ထက် မပိုကြရချေ၊ ဟင်းအမျိုးအမည်သာ ပြောင်းချင် ပြောင်းမည်၊ လေးခွက်ကား ယခုတိုင် အောင် မပြောင်း။

မှန်ပါသည်၊ ဆရာတော်က အပိုအလိုမပြု မျှတ ရုံမျှ စီစဉ်သည်မှာ အလွန်သဘာဝကျပါသည်၊ ဤနှုန်းဖြင့် စီစဉ်ရာ၌ပင် သံဃာတော် ငါးရာကျော် ခြောက်ရာနီးပါးမျှ ရှိသောအခါက အရုဏ်ဆွမ်း နေ့ဆွမ်း နှစ်ထပ် ကပ်မည်ဆိုပါလျှင် ငွေခြောက်ထောင်နီးပါးမျှ တစ်နေ့အတွက် ကုန်ကျနေပါသည်၊ နေ့ဆွမ်းချက်သောအခါ ၇ တင်းချက်ရ၏၊ ဤသည်ကို ထောက်ဆ၍ အမရပူရမြို့ကလေးက နေ့စဉ် ဤကျောင်းတိုက်အတွက်ပင် ဆန် ၇ တင်းချက် ထောက်ပံ့လှူဒါန်းနေသည်ဟု သိနိုင်ရတော့၏။

ဤကား အစားအစာအတွက်မျှသာ ရှိသေးသည်၊ သင်္ကန်းအတွက် ကျောင်းအတွက် ဆေးအတွက် ကုန်ကျစရိတ်များ မပါသေး၊ ဤသို့လျှင် သံဃာတော်များအဖို့ စားဝတ်နေရေးမှာ သာမန်အရပ်သား လူတန်းစားတို့ထက် အများကြီး သာလျက် ရှိသည်ကို တွေ့ရမည် ဖြစ်၏။

## ကုန်ကျသမျှ အကျိုးပြန်၍ပြု

ဤမျှသော ကုန်ကျစရိတ်တို့ကို အချို့ဆွမ်းအလှူရှင်များမှာ "တစ်နေ့တွက်လည်း ကပ်လှူလိုပါသည်၊ ငါးထောင်ခြောက်ထောင်လည်း မတတ်နိုင်ပါ၊ လေးထောင်မျှသာ (သို့မဟုတ်) သုံးထောင့်ငါးရာမျှသာ တတ်နိုင်ပါသည်"ဆိုလျှင်လည်း ကျောင်းတိုက်က ဖြည့်ပေးသည်သာ၊ အဘယ့်ကြောင့်ဆိုသော် ထိုအလှူရှင်များ မလာလျှင်လည်း ဤကုန်ကျနှုန်းကို ကျောင်းတိုက်က နေ့စဉ် တာဝန်ယူနေရ၏၊ ယခုထိုအလှူရှင်များ ဝင်လာ၍ ကျောင်းတိုက်ကပင် သက်သာသေး၏ဟု တွက်ဆနိုင်သောကြောင့် ဖြစ်ပေသည်၊ အစားအစာအတွက်မျှဖြင့်ပင် တစ်နေ့လျှင် ငါးထောင်မျှ ကုန်ကျနေခဲ့သော် တစ်လအတွက် မည်မျှ, တစ်နှစ်အတွက် မည်မျှ ကုန်ကျနိုင်မည်ကို ခန့်မှန်းနိုင်တော့သည်၊ ဆရာတော့်ဝါဒကား လိုအပ်သည်ထက် ပို၍ ကုန်ကျသည်ကို မနှစ်မြို့, ထို့ပြင်လည်း ကုန်ကျရသမျှကို သာသနာ့ဝန်ထမ်းသားတို့က အကျိုးပြန်၍ ပြုစေချင်သည်၊ "တိုင်းပြည်က ဤမျှ ထောက်ပံ့သဖြင့် သာသနာက ဤသို့ ပြန်၍ အကျိုး ပြုသည်"ဟု ကိုယ်စီကိုယ်င တိတိပပ အလုပ်ပြန်၍ ပြစေချင်သည်။

## သံဃာ့ဘုန်းကံ မိုးသို့ပျံ့မှု

ဆရာတော် အရှင်ဇနကာဘိဝံသမှာ တပည့်များ၏ စားဝတ်နေရေး ကျန်းမာရေးနှင့် ပညာရေးတို့အတွက် ဝိနည်းကျင့်ဝတ်နှင့်အညီ အပ်အပ်စပ်စပ်ဖြစ်အောင် စီမံ၍ တပည့်ငါးပါးလောက်မှ စတင်ပြီး တာဝန်ခံ ကျွေးမွေးစောင့်ရှောက်လာခဲ့ရာ ယခု တပည့်ငါးရာကျော် ရှိလာသောအခါတွင်လည်း မူမပျက် ကျွေးမွေးလျက်ပင် ရှိသည်။

သံဃာဦးရေ နည်းပါးစဉ်က မျှတရုံမျှ ရခဲ့သလို ယခုကဲ့သို့ သံဃာဦးရေ များလာသောအခါတွင်လည်း လုံလောက်အောင်တော့ ဖြစ်လာပြန်သည်၊ ဝတ်ရုံသုံးစွဲဖို့ သင်္ကန်း, နေဖို့ထိုင်ဖို့ ကျောင်းကန်အဆောက်အအုံ, ကျန်းမာရေးအတွက် ဆေးပစ္စည်းတို့ပါ လုံလောက်အောင် ဖြစ်လာနေပြန်သည်၊ မြတ်စွာဘုရား၏ အဆုံးအမသာသနာတော်၏ အရှိန်အဝါ, သံဃာတော်များ၏ ဘုန်းကံပေတကား၊ အံ့ဩဖွယ် ကောင်းပေစွ။

ထို့ကြောင့် ယခုလက်ရှိ တပည့် (၅၀၀)နှင့်တွက်လျှင် တစ်နှစ်အတွက်ကုန်ကျငွေမှာ(၂၆၀၅x၅၀၀)= ၁၃၀၂၅၀၀၀ ကျပ်(တစ်ဆယ့်သုံးသိန်းကျော်)ဖြစ်၏။ ၁၃၄၂ ခုနှစ်တွင် အမရပူရ မဟာဂန္ဓာရုံတိုက်၌ သံဃာတော်ဦးရေ ၆၅၀ ရှိလာ၏၊ ယင်းဦးရေးဖြင့် တွက်လျှင် တစ်နှစ်ကုန်ကျငွေပေါင်းမှာ ၁၆၉၃၂၅၀ ကျပ် (တစ်ဆယ့်ခြောက်သိန်းကျော်) ဖြစ်သည်။

ဤမျှ များပြားသော ငွေကြေးပမာဏနှင့်တာဝန်ကြီးကို ဘုရားသာသနာတော်အတွက် မညည်းမညူ ကြည်ဖြူစွာ ထမ်းဆောင်နေကြသော ဒါယကာဒါယိကာမများအပေါ် မငဲ့ညှာ မထောက်ထားဘဲ ကိုယ်ကျင့်သီလများ ဖောက်ပြားစွာ ကျင့်သုံးနေထိုင်ကြပါက... အဘယ်မျှ ဝန်လေးမည်ဖြစ်ကြောင်း အောက်မေ့ သတိပြုဖွယ်ပင် ဖြစ်တော့သည်။

### မဟာဂန္ဓာရုံကျောင်းတိုက် သံဃာတော်တစ်ပါးအတွက် ကုန်ကျစရိတ်များ (၁၃၄၂ ခုနှစ်)

| စဉ် | အမျိုးအမည် | သုံးစွဲမှုနှင့် ပစ္စည်းများ | ကျပ် | ပြား |
|---|---|---|---|---|
| ၁ | စားစရိတ် | နံနက်-နေ့ ဆွမ်း, ညနေ ဖျော်ရည် တစ်ရက်တွက် ၅ ကျပ်၊ ထို့ကြောင့် တစ်နှစ်တွက် (၅ x ၃၆၅)ကျပ် | ၁၈၂၅ | ၀၀ |
| ၂ | အဝတ်စရိတ် | သင်္ကန်းတစ်စုံလျှင် ၁၀၀ ကျပ်နှုန်းနှင့် တစ်နှစ်အတွက် ၂ စုံ (၂ x ၁၀၀) ကျပ် | ၂၀၀ | ၀၀ |
| ၃ | အနေစရိတ် | ရေ မီး အသုံးအဆောင် တစ်လ ၃၀ ကျပ် ထို့ကြောင့် တစ်နှစ်အတွက် (၃၀ x ၁၂) ကျပ် | ၃၆၀ | ၀၀ |
| ၄ | ကျန်းမာရေး | ဆေးပစ္စည်းဆိုင်ရာ တစ်လ ၁၀ ကျပ် ထို့ကြောင့် တစ်နှစ်အတွက် (၁၂ x ၁၀) ကျပ် | ၁၂၀ | ၀၀ |
| ၅ | ပညာရေး | ခဲတံ, ဗလာစာအုပ် စသည် တစ်နှစ်အတွက် | ၁၀၀ | ၀၀ |
| | | သံဃာတစ်ပါးလျှင် တစ်နှစ်အတွက် ကုန်ကျငွေ စုစုပေါင်း | ၂၆၀၅ | ၀၀ |

## စာရင်း တင်မထားလို့သာပါ

ဤသို့လျှင် မဟာဂန္ဓာရုံကျောင်းတိုက်ရှိ သံဃာတော် ၅၀၀ ကျော်မျှဖြင့်ပင် တစ်နှစ်အတွက် ဤရွေ့ဤမျှ ကုန်ကျနေလျှင် မြန်မာတစ်နိုင်ငံလုံး၌ ရှိကြသော သံဃာတော် "တစ်သိန်းကျော်"ဖြင့် တွက်လျှင် အဘယ်မျှ ကုန်ကျမည်, "နှစ်သိန်းကျော်"ဖြင့် တွက်လျှင် အဘယ်မျှ ကုန်ကျမည်ကိုလည်း ခန့်မှန်းနိုင်တော့၏၊ ယခုအခါ မြန်မာပြည်၌ သံဃာတော် "နှစ်သိန်းကျော်" ရှိသည်။

အို ... စာရှုသူ, ဤသို့လျှင် သံဃာတော်များအတွက် များစွာသော ကုန်ကျစရိတ်တို့ကို တွေ့ရသဖြင့် အဘယ်သို့ စဉ်းစားမိပါသနည်း။

"ဤပုဂ္ဂိုလ်တို့သည် တိုင်းပြည်အတွက် အလုပ်လုပ်၍ မပေးကြ"ဟု ထင်ပါသလား၊ "ဤပုဂ္ဂိုလ်တို့အတွက် တိုင်းပြည်၏ ဘဏ္ဍာများ ကုန်လှချေတကား"ဟု ယူဆပါသလား။

ထိုသို့ ယူဆလျှင် တစ်ဖက်သတ် မြင်ရာကျပါလိမ့်မည်၊ အချို့က မိမိတို့ လိုရာဘက်ကို ဆွဲ၍ တွေးတတ် ရေးတတ် ပြောတတ် ဆိုတတ်ကြ၏၊ တစ်ဖက်သတ် ကြည့်တတ် မြင်တတ်ကြ၏၊ တစ်ဖက်ကို စောင်းငဲ့၍ ကြည့်ပါက အခြားဘက်ကို အဘယ်မှာလျှင် မြင်နိုင်တော့အံ့နည်း။

နှစ်ဖက်လုံးကို မျှ၍ ကြည့်ပါလျှင် သံဃာတော်များကြောင့် တိုင်းပြည်၌ အကျိုးရှိသည်တို့ကိုလည်း တွေ့မြင်နိုင်ပါမည်၊ အမှန်မှာ သံဃာတော်များအတွက် ကုန်ကျသော စာရင်းတို့ကိုသာ တင်ထားတတ်ကြပြီးလျှင် သံဃာတော်များကြောင့် ပြန်၍ရသော အကျိုးတို့ကိုကား စာရင်းတင် မထားကြ၍သာ ဖြစ်ပါသည်။

## ရှင်နိုင်ပြုံးနိုင် ရယ်နိုင်မောနိုင်

မြန်မာပြည်သို့ လာ၍ ရပ်နားနေသော ဘုရားသာသနာတော်ကြီးသည် ... အေးရိပ်သာသော ပညောင်ပင်ကြီးနှင့် တူပါသည်၊ ခိုလှုံသူ လူသားတို့အား နှလုံးစိတ်ဝမ်း ချမ်းမြေ့စေခြင်း, ကြည်နူးမှုပေးခြင်း, အေးမြစေခြင်း, တရားမျှတခြင်း, ညာတာခြင်း, သည်းခံနိုင်ခြင်း, ခွင့်လွှတ်နိုင်ခြင်း စသော အခက်အလက် အရိပ်တို့ဖြင့် မိုးကာပေးပါ၏၊ ခိုလှုံလာသူ လူသားတို့အား နှလုံးစိတ်ဝမ်း ချမ်းမြေ့စေပါသည်၊ ထိုအခါ ကျေနပ်မှုဆန္ဒ အပြည့်အဝ ရကြ၍ ရှင်နိုင် ပြုံးနိုင် ရယ်နိုင် မောနိုင်ကြရပါသည်။

ဘုရားရှင်ကိုယ်တော်မြတ်က သာသနာတော်ကြီးကို "ဗဟုဇနဟိတာယ, ဗဟုဇနသုခါယ" လူသားတို့အတွက် အကျိုးစီးပွား ဖြစ်ဖို့, လူသားတို့အတွက် ချမ်းသာသုခဖြစ်ဖို့ အကျိုးငှာ တည်ထားခြင်း ဖြစ်ပါသည်၊ သာသနာတော်ကြီးကြောင့် လူသားတို့ကို အကျိုးမဲ့ မဖြစ်စေပါ၊ ပါရမီရင့်သူတို့အဖို့ ဤသာသနာကြီးကို မှီ၍ ခေါင်ထိပ်ရောက်အောင် အကျိုးဖြစ်ထွန်းစေဖို့နှင့် ပါရမီနုသူတို့အား နှလုံးသားနူးညံ့စေဖို့သာ ဖြစ်ပါသည်။

ထို့ကြောင့် အောက်ထစ်ဆုံးအားဖြင့် လူသားတို့ကို အုပ်ချုပ်ရာ၌ပင် လွယ်ကူသွားစေခြင်း, ဒေါသမာန်မာန လျော့ပါးသွားစေခြင်း, ရာဇဝတ်မှုများ နည်းပါးသွားစေခြင်းစသောအကျိုးတို့ကို ရစေသဖြင့် အုပ်ချုပ်ရေးကုန်ကျစရိတ်များ သက်သာသွားစေနိုင်ပါသည်၊ ဤနည်းအားဖြင့် သာသနာတော်ကြီးက ပြန်၍ အကျိုးပြုနေသည်ဆိုလျှင် ငြင်းနိုင်ပါမည်လော။

ထို့ကြောင့်လည်း ဆရာတော် အရှင်ဇနကာဘိဝံသက တိုင်းပြည်အတွက် တစ်ဖက်တစ်လမ်းမှ အကျိုးများလှသော သာသနာတော်ကြီးကို ဆက်လက် တည်တံ့စေလို, သန့်ရှင်းပြန့်ပွားစေလိုသော ဆန္ဒပြင်းပြနေရခြင်း ဖြစ်ပေသည်၊ သို့ဖြစ်၍ များပြားလှသော သာသနာ့ဝန်ထမ်းသားတို့၏ အင်အားကိုလည်း တိုင်းပြည်အတွက် စနစ်တကျ အသုံးပြုပါက အလဟဿ မဖြစ်နိုင်ကြောင်း မကြာခဏ မိန့်ဟနေတတ်ခြင်း ဖြစ်ပါသည်။

---

* ၁၉၈၁–၁၉၈၃ ခုနှစ်အတွင်း (၄–၃–၈၃)နေ့အထိ သက်ဆိုင်ရာဌာန၏ စစ်တမ်းအရ မြန်မာပြည်အရပ်ရပ်၌ ဘုန်းတော်ကြီးကျောင်းပေါင်း (၄၁၅၁၀)လေးသောင်းကျော်ရှိ၏၊ ရဟန်းတော်ပေါင်း (၁၂၀၁၉၆), သာမဏေပေါင်း (၁၅၄၇၁၅) နှစ်ရပ်ပေါင်း (၂၇၄၉၁၁) နှစ်သိန်းကျော် ရှိသည်ဟု သိရ၏။

## အံ့ဩစရာ လှေလှာဖွယ်

ဤမျှ ကုန်ကျငွေတို့ကို အဘယ်မှ ရရှိပါသနည်း၊ ကြိုတင် စီစဉ် မြှုပ်နှံထားသော ငွေပင်ငွေရင်းများ ရှိပါသလော (သို့မဟုတ်) ရံပုံငွေ ရှာဖွေပေးသော လူပုဂ္ဂိုလ် ရဟန်းပုဂ္ဂိုလ် ဓမ္မကထိက စသည် ရှိပါသလော (သို့မဟုတ်) ဝေယျာဝစ္စအဖွဲ့၊ ကပ္ပိယကာရကအဖွဲ့၊ ဂေါပကအဖွဲ့စသည် ရှိပါသလော၊ မေးစရာပင် ဖြစ်၏၊ လှေလှာစရာပင် ဖြစ်တော့၏၊ အသို့ပါနည်း။...

ဤသို့လျှင် အကယ်တည့်တည့် လှေလှာကြည့်သောအခါ ဆရာတော်၌ တစ်နှစ် တစ်နှစ်အတွက် သုံးစွဲဖို့ရန် ထိုကဲ့သို့ ရင်းနှီးမြှုပ်နှံထားသော ငွေပင်ငွေရင်းများ မရှိပါ၊ ရံပုံငွေ ရှာဖွေပေးသော လူပုဂ္ဂိုလ် ရဟန်းပုဂ္ဂိုလ် ဓမ္မကထိက စသည်လည်း မထားပါ၊ ဝေယျာဝစ္စအဖွဲ့၊ ကပ္ပိယကာရကအဖွဲ့၊ ဂေါပကအဖွဲ့ စသည်ဖြင့်လည်း သီးသန့်ဖွဲ့စည်းထားခြင်းလည်း မရှိပါ၊ သုံးစွဲချိန်ကျမှသာ အလိုအလျောက် သဒ္ဓါပေါက်၍ ပေါ်ပေါက် ရောက်ရှိလာရခြင်း ဖြစ်ပါသည်။

အသင်းအဖွဲ့အနေနှင့် သီးသန့် မရှိသော်လည်း ရရှိလာသော ပစ္စည်းတို့ကို ရဟန်းတို့နှင့် အပ်စပ်အောင် စီမံ ဖန်တီးတတ်သော ကပ္ပိယကာရကဒါယကာကြီးတစ်ဦးနှင့် ဖိုးသူတော်ကလေးများကား ရှိကြ၏၊ ယင်းတို့က အပ်စပ်အောင် အရပ်ရပ် စီမံပေးကြသည်။

ဝိနည်းကျင့်ဝတ်တရားတော်အရ "အသုံးရှိမှ အလှူခံ၊ အပိုအလျှံ မထားနှင့်"ဟူသည့်အတိုင်း ဆရာတော်က အသုံးရှိသလောက်သာ မျှတရုံ အလှူခံတော်မူခြင်း ဖြစ်၏၊ အပိုအလျှံလည်း မထား။

ထို့ကြောင့် ဤမျှ များပြားသော ငွေကြေးပမာဏတို့ကို တစ်နှစ်ကုန်၍ စာရင်းချုပ်ကြည့်မှ သိရသော်လည်း နှစ်မတိုင်မီက ဤငွေများ မရှိခဲ့ပါ၊ နှစ်ကုန်သောအခါတွင်လည်း ဤငွေများ မကျန်ရစ်ခဲ့ခြင်း ဖြစ်ပေသည်။

## သဒ္ဓါကြေးနှင့် အခမဲ့လုပ်ကိုင်

ယခုကဲ့သို့ သံဃာတော် ငါးရာကျော် ခြောက်ရာနီးပါးမျှ ရှိသောအခါတွင် (အခြားအခြားသော အသုံးစရိတ်များ မပါ) စားသောက်ရေး တစ်မျိုးအတွက် သက်သက်ပင်လျှင် တစ်နေ့ ငါးထောင်ကျော် ခြောက်ထောင်နီးပါးမျှ ကုန်ကျလေရာ ယင်းအသုံးစရိတ်ကိုလည်းကောင်း၊ အခြားသော အဝတ်သင်္ကန်း၊ အဆောက်အအုံ၊ ကျန်းမာရေး၊ ပညာရေး အသုံးစရိတ်တို့ကိုလည်းကောင်း အဘယ်မှ ရရှိသနည်း၊ အဘယ်ပုဂ္ဂိုလ်တို့က လှူဒါန်းကြပါသနည်း၊ ဤသို့ မေးပါလျှင်...

ဤကုန်ကျစရိတ် အထွေထွေ အရပ်ရပ်တို့ကို ပင်ရင်း မူလ ရပ်တည် မှီခိုနေရာ အမရပူရနှင့်တကွ မြန်မာပြည်အနှံ့အပြား သဒ္ဓါတရားရှိသော ပုဂ္ဂိုလ်တို့ထံမှ ရရှိပါသည်၊ ထိုပုဂ္ဂိုလ်တို့က စေတနာ အလျောက် သဒ္ဓါပေါက်၍ လာရောက် လှူဒါန်းကြခြင်းပင် ဖြစ်ပေသည်။

ထိုသဒ္ဓါကြေးတို့ဖြင့် ရင်းနှီး၍ သာသနာတော်ကြီးကို မယိုင်လဲအောင် ခိုင်မြဲဖို့ရာ ကျားကန်ထားတော်မူသည်၊ လှူဒါန်းသူတို့က သဒ္ဓါကြေးတို့ဖြင့် အခမဲ့လှူဒါန်းကြသလို သာသနာတော်၏ အလုပ်တွေကို အကောင်အထည်ဖော် ဆောင်ရွက်ပေးသော ဆရာတော် အရှင်ဇနကာဘိဝံသကလည်း **အစားအခမဲ့၊ အဝတ်အခမဲ့၊ အနေအခမဲ့၊ ကျန်းမာရေး အခမဲ့၊ ပညာရေး အခမဲ့**တို့ဖြင့် ဆောင်ရွက်တော်မူနေသည်၊ အရာရာတွင် အခမဲ့ကြေးဖြင့် အခမဲ့ သင်တန်းပေးပြီးလျှင် အခမဲ့ရသော သာသနာတော်ကြီး၌ လူတော်လူကောင်းများ ဖြစ်အောင်၊ မြန်မာပြည်အတွက် ဂုဏ်ကျက်သရေ တက်စေမည့် သာသနာတော်ကြီး အရှည်ခံ၍ တည်တံ့အောင် ရွက်ဆောင်တော်မူနေခြင်း ဖြစ်ပေသည်။

## အခမဲ့ကုသိုလ်ဖြင့် အခမဲ့နိဗ္ဗာန်သို့

အခြားသော လူ့အဖွဲ့အစည်း၊ နိုင်ငံအဖွဲ့အစည်းတို့၌ဆိုလျှင် ဤမျှများပြားသော ပရိသတ်တို့အတွက် စားသောက်ရေးစရိတ်များ၊ အုပ်ချုပ်ကွပ်ကဲရေးစရိတ်များ၊ သန့်ရှင်းရေးစရိတ်များ၊ ပညာသင်ပေးရေးစရိတ်များ၊ အခြားအထွေထွေစရိတ်များ များစွာပါရပါလိမ့်ဦးမည်၊ ဤသံဃာတော်များ၏ အဖွဲ့အစည်း၌ကား...

၁။ အစားအသောက် အခမဲ့၊ ၂။ အဝတ်ခြုံထည် အခမဲ့၊ ၃။ နေထိုင်ရေး အဆောက်အအုံ အခမဲ့၊ ၄။ ကျန်းမာရေးအခမဲ့၊ ၅။ ပညာရေးအခမဲ့တို့သာ ဖြစ်ကြ၏။

သုံးလောကထွတ်ထား မြတ်စွာဘုရားသည် သတ္တဝါအားလုံးတို့အား လမ်းမှန်ကို မြင်ဖို့ရာ အခမဲ့ ဟောကြားပေးတော်မူခဲ့၏၊ အရှင်သာရိပုတ္တရာ၊ အရှင်မောဂ္ဂလ္လာန်၊ အရှင်မဟာကဿပ အစရှိသော သားတော်ကြီးများလည်း အဖဘုရားရှင်နည်းတူ အခမဲ့ ဟောကြားပေးတော်မူကြ၏။

သာသနာတော်အဆက်ဆက် တည်တံ့နေရစ်ရန် အရှင်မဟာကဿပ၊ အရှင်အာနန္ဒာ၊ အရှင်ဥပါလိ စသော မထေရ်ကြီးတို့သည် သုံးပုံပိဋကတ် အရပ်ရပ်ကို တပည့် အဆက်ဆက်တို့အား အခမဲ့ သင်ကြားပေးတော်မူခဲ့ကြ၏။

ဤနည်းတူ အရှင်ဇနကာဘိဝံသကလည်း အဖဘုရားရှင်နှင့်တကွ နောင်တော်နောင်တော်တို့ပမာ အရာရာတွင် အခမဲ့စနစ်ကိုသာ ကျင့်သုံး၍ အခမဲ့ဖြင့် နိဗ္ဗာန်ကို မျက်မှောက်ပြုလိုသည့်အတွက် အခမဲ့ကုသိုလ်များကို မနားတမ်း ပြုလုပ်လာခဲ့ခြင်း ဖြစ်ပေသည်။

## ဤကျောင်းတိုက်သာသနာဖြင့် ဗုဒ္ဓမြတ်စွာ ပူဇော်ပါ၏
### အခြေခံပုံချင်း မတူခဲ့ကြ၍

ဆရာတော်သည် မြန်မာပြည်၌ သာသနာတော်ရပ်တည်ပုံကို အတော် စေ့စေ့ကပင် တဖွဖွ ပြောနေခဲ့၏၊ ယခုနောက်ပိုင်းတွင်လည်း ပြောနေခဲ့သည်၊ ကိုးတိုင်း ကိုးဌာန သာသနာပြုပုဂ္ဂိုလ်ကြီးများ ထွက်ကြစဉ်က ကိုယ့်တာဝန်ကျရာ နယ်မြေဒေသကို ကိုယ့်နည်းကိုယ့်ဟန်တို့ဖြင့် သာသနာပြုတော်မူခဲ့ကြ၏၊ အရှင်မဟာမဟိန္ဒတို့ တာဝန်ကျရာ သီဟိုဠ် (သီရိလင်္ကာ)နိုင်ငံမှာဆိုလျှင် စလျှင် စခြင်း သုတ္တန်တရားတော်ကြီးများဖြင့် ခမ်းခမ်းနားနား ဟောကြား၍ ကျင့်ကြ ကြံကြ အားထုတ်ကြသောကြောင့် ဈာန်ရသူ မဂ်ရသူ ဖိုလ်ရသူတို့ဖြင့် သီဟိုဠ်တစ်ကျွန်းလုံး ဖုံးလွှမ်းခဲ့သည်၊ အကျင့်သိက္ခာကို ဦးစားပေးခဲ့ကြ၏။

ဈာန်ရသူများက ကောင်းကင်၌ တလွှားလွှား ပျံသန်းနေကြသောကြောင့် လွှမ်းထားသော စပါးဖျာပင် မခြောက်သွေ့နိုင်၍ လူတို့က ငြိုငြင်ကြရသည် ဆို၏၊ ကျောင်းတိုင်း ကျောင်းတိုင်း ဂူတိုင်း ဂူတိုင်းကို စစ်ဆေး ကြည့်လျှင်လည်း သော်တာပန်၊ သကဒါဂါမ်၊ အနာဂါမ် စသည် မဖြစ်ဖူးသော ဂူကျောင်းပြသာဒ်ဟူ၍ မရှိသလောက် ဖြစ်သည် ဆို၏။

မြန်မာပြည်သို့ "အရှင်သောဏ၊ အရှင်ဥတ္တရတို့၏ ရောက်စ သာသနာကို မဆိုလိုသော်လည်း ပုဂံပြည်တွင် အရှင်အရဟံတို့ ထူထောင်ရေး စကြရာ၌ကား အောက်ခြေသိမ်း အခြေခံပရိယတ်ကိုသာ စ၍ ကိုင်ရတော့သည်။

အခြေခံ ပရိယတ်တွင်လည်း ပိဋကတ်ပါဠိတော် ဗိမာန်ကြီးသို့ တက်နိုင်ဖို့ရန် သဒ္ဒါလှေကားတို့ကို ထောင်နေကြရပြန်သဖြင့် အချိန်တွေများစွာ ကုန်ကြရပြန်၏၊ လူတို့ဘက်တွင်လည်း အနည်းငယ် ခက်သော သီလကို အသာထား၍ လွယ်ကူသော ဒါနကို ရှေ့တန်းတင်ကာ ဟောကြားရ၏၊ ထို့ကြောင့် စေတနာသဒ္ဓါတရားတို့ ဒလဟော ပြုလိမ့်ဆင်းလာကြကာ ပုဂံတစ်မြေပြင်လုံး အုန်းအုန်းကျွက်ကျွတ် ဘုရား ပုထိုး ဂူ ကျောင်း ပြသာဒ်တို့ဖြင့် ဖုံးလွှမ်းခဲ့ကြတော့သည်။

## ဗုဒ္ဓဘုရားနှင့် မြန်မြန်တွေ့ဖို့

ယခု မိမိတို့ ရပ်တည်နေရသော အခြေအနေသည်လည်း ထိုခေတ်မှ အဆက်ဆက် အမွေပေးခဲ့၍ ရခဲ့သည် ဖြစ်ရကား ထိုနည်းဟန်အတိုင်းပင် ဖြစ်နေ၏၊ ရေစီးကြောင်း ပြောင်းလွဲ၍ မရသေး၊ ယခုအခါ လူတို့ဘက်တွင် ကမ္မဋ္ဌာန်းဘာဝနာ ဟူ၍ ကျယ်လောင်စွာ အော်မြည်လာကြသော်လည်း ရပ်တည်ဖို့ရာ အခြေခံသီလကိုလည်း ဦးစားမပေးကြပြန်သဖြင့် အားမရစရာ ဖြစ်နေပြန်သေး၏၊ အရေးကြီးသော သီလကို စကားထဲ ထည့်၍ မပြောသလို ဖြစ်နေသည်၊ ရဟန်းသံဃာတို့ဘက်တွင် ကြည့်လျှင်လည်း ပန်းတိုင်ဖြစ်သော ပဋိဝေဓသို့ အရောက်သွားရေးအတွက် အကြောင်းပဋိပတ္တိကို အလှည့်ပေးရန် အခွင့် မရနိုင်သလို ဖြစ်နေခဲ့၏၊ အခြေခံ ပရိယတ္တိမှ မတက်နိုင်ဘဲ ခက်ခဲ၍ တဝဲလည်လည် ဖြစ်နေခဲ့ရသည်၊ အချိန်ကုန်များလွန်းလှ၏၊ ဤသည်ကို ဆရာတော် အရှင်ဇနကာဘိဝံသက မကျေနပ်နိုင်ခဲ့။

"အဆိုးထဲမှ အကောင်းရှာ"ဆိုသလို အခြေခံပရိယတ္တိမှ မတက်နိုင် (ရုန်း၍ မထွက်နိုင်)ရှိစေ၊ ထိုပရိယတ္တိကို ထမ်းလျက်ပင် ဖြစ်နိုင်သောနည်းလမ်းကို ရှာရ၏၊ ရှာသောအခါ "ဘုရားနှင့် အမြန်တွေ့ပေးနိုင်လျှင် သင့်တော်မည်"ဟု တွေ့လာရသည်၊ သို့ဖြစ်လျှင် ဘုရားရှင်နှင့် တိုက်ရိုက်တွေ့နိုင်သော ပါဠိတော်ကြီးများနှင့် အမြန် တွေ့ပေးရမည်သာ ဖြစ်၏၊ ထို့ကြောင့် ဆရာတော် အရှင်ဇနကာဘိဝံသက မိမိပိုင်သော မဟာဂန္ဓာရုံကျောင်းတိုက်တွင် ထိုပါဠိတော်ကြီးများကို မြန်မြန်တတ်သိနိုင်သော နည်းစနစ်ဖြင့် စီစဉ်၍ ကျင့်သုံးလာခဲ့၏၊ ကြာပြီဖြစ်သည်။

ထို့ကြောင့် ဘုရားရှင်နှင့် တွေ့ရသဖြင့် သဒ္ဓါတရားများ ဖြစ်ကြပြီးလျှင် အထိုက်အလျောက် သေဝပ်မှု ငြိမ်သက်မှု ရခဲ့၏၊ ကြည်ညိုဖွယ်ဖြစ်ခဲ့သည်၊ ဤမျှလောက် ဖြစ်သည်ကိုပင် အများက ဝိုင်း၍ ကြည့်ကြ၏၊ ကြည်ညိုကြ၏၊ လေးစားကြ၏၊ သို့သော် လက်တွေ့ကျင့်သုံးမှု ပဋိပတ်သို့ မရောက်သေးသမျှ အားရဖွယ်ဟု မထင်မှတ်အပ်သေး။

စာပေ ပရိယတ်များသည် လက်တွေ့ ကိုယ်ကျင့်တရားသို့ မရောက်သေးသမျှ စိတ်မချရသေးဟု ဆိုလို၏။

## နေ့ ပရိယတ် ည ပဋိပတ်

ထို့ကြောင့်ပင် ဆရာတော်က ပရိယတ်ကို အခြေခံ၍ ပရိယတ်နယ်မှ ပဋိပတ်နယ်သို့ အမြန်ချီတက်နိုင်ရေးနည်းလမ်းကို ရှာဖွေသည်၊ ထိုအခါ "ပရိယတ်ကို အဆာချ၍ အချိန်တွေ ကုန်မနေစေသင့်၊ သင်ယူမိသမျှ ပရိယတ်သည် ခန္ဓာကိုယ်ပေါ်သို့ အမြန်ရောက်၍ ပဋိပတ်ဖြင့် နေမှသာ သာသနာ့ကျက်သရေ အစစ် ဖြစ်နိုင်မည်"၊ ဤသို့ တွေးခေါ် မြော်မြင်တော်မူ၍ မဟာဂန္ဓာရုံတိုက်ကို ထိုလမ်းစဉ်သို့ ဦးတည်ပေးနေခဲ့သည်၊ သံဃာတော်များကို ထိုလမ်းသို့ သွားအောင်လည်း ဟောကြား၍ ဖိအားပေးတော်မူခဲ့၏။

ထိုသို့ ဖြစ်နိုင်ဖို့ရာမှာကား တစ်ချိန်တွင် ပရိယတ်သင်၍ တစ်ချိန်တွင် ပဋိပတ်ကျင့်သောနည်း ဖြစ်၏၊ အကောင်းဆုံးကား နေ့တွင် ပရိယတ်ကို သင်၍ ညတွင် ပဋိပတ်ကို ကျင့်သုံးရသော နည်းဖြစ်၏။

ထို့ကြောင့် ဆရာတော်က ဤနည်းစနစ်ကို သဘောကျ၍ "တစ်နိုင်ငံလုံးကို ပြင်ခွင့်မရလျှင် ရှိစေဦး၊ မိမိကျောင်းတိုက်ကိုတော့ ယခုလက်ငင်းပင် ဖြစ်အောင် ပြင်မယ်"ဟူသော ဇွဲဖြင့် ပြုပြင်လာခဲ့ရာ အထိုက်အလျောက် အောင်မြင်မှု ရရှိခဲ့ပါသည်။

ဘုရားကျေနပ်တော်မူမည့် သာသနာ့ အနေအထားကလည်း ဤအတိုင်းပင် အခြေခံပရိယတ်ကို မှန်မှန်ကန်ကန် တတ်သိ၍ "ထိုပရိယတ်က ညွှန်ပြသော" နည်းလမ်းအတိုင်း ကိုယ်ကျင့်သီလဝိနည်းများနှင့် ပြည့်စုံကြပြီးလျှင် ဘာဝနာကမ္မဋ္ဌာန်း ပဋိပတ်စခန်းကို ကြိုးပမ်းနေသော သာသနာတော်သာ ဖြစ်ရပေမည်"ဟု ဆရာတော် ယူဆထား၏။

ထို့ကြောင့် "ဤအနေအထားမျိုး တစ်စတစ်စ တရွေ့ရွေ့ဖြင့် တစ်နေ့နေ့တွင် တစ်နိုင်ငံလုံး ဖြစ်ကုန်ပါစေ, နေ့ ပရိယတ်, ည ပဋိပတ် ဒွန်တွဲသော

သာသနာတော်မြတ်ကြီး ဖြစ်ပါစေ"ဟု ဆန္ဒပြုတော်မူ၏၊ ဤဆန္ဒဖြင့်ပင် ဆရာတော်က မိမိကျောင်းတိုက်ကို ပြုပြင်ရာတွင် ရုပ်ဝတ္ထုကိုရော နာမ်ဝတ္ထုကိုပါ အစွမ်းရှိသမျှ ပြုပြင်ကာ **"ဤကျောင်းတိုက် သာသနာဖြင့် ဗုဒ္ဓမြတ်စွာကို ပူဇော်ပါ၏"** ဟု နံနက်တိုင်း ညတိုင်း ဆို၍ ပူဇော်နေတော်မူခဲ့သည်။

တစ်ခါတစ်ရံ "ဒါဟာ ဘုန်းကြီးရဲ့ ကျောင်းတိုက် မဟုတ်ဘူး၊ ဘုရားကို ပူဇော်ထားတာ, ဘုရားကို လှူထားတာ, ဘုရားရဲ့ ကျောင်းတိုက်ပဲ"ဟူ၍ မိန့်တတ်သေး၏။

## နဂါးလှည့် မသင့်လို့ မင်းခက်နေဦးမယ်

### မျှော်လေတိုင်းဝေး စိတ်မအေးခဲ့

ဆရာတော်သည် မိမိကျောင်းတိုက်သံဃာများကို ပြုပြင်ရာ၌ အထိုက်အလျောက် အောင်မြင်မှုရသဖြင့် အတော်အတန်ကျေနပ်မှု ဖြစ်ရပါ၏။

သို့သော် ဆရာတော် ရည်မှန်းသည်က မိမိကျောင်းတိုက်အတွက် ကွက်ကွက်ကလေးသာ မဟုတ်၊ တစ်ဂိုဏ်းတစ်ဖွဲ့တည်းအတွက် ကွက်ကွက်ကလေးလည်း မဟုတ်။

ရည်မှန်းသည်က တစ်သာသနာလုံးအတွက် ကျယ်ကျယ်ပြန့်ပြန့်၊ ဆရာတော်က တစ်သာသနာလုံးကို ပြုပြင်ပြောင်းလဲရေးကြီး လုပ်ချင်သည်၊ မူလဘူတ အစပိုင်းကကဲ့သို့ သီလကို အခြေခံသော, ကိုယ်ကျင့်သီလကို ဦးစားပေးသော အနေအထားမျိုးသာ ဘုရားရှင်ကိုယ်တော်မြတ်က ကျေနပ်တော်မူပေမည်၊ ဘုရားရှင်ကိုယ်တော်မြတ် ကျေနပ်တော်မူမည့် အနေအထားမျိုးမှ သွေဖည်နေလျှင် ပြုပြင်ပြောင်းလဲရေးမှာ သာသနာ့ဝန်ထမ်းသားတိုင်း၏ တာဝန်တစ်ရပ်သာ ဖြစ်ချေ၏၊ ထို့ကြောင့် ဆရာတော် အရှင် ဇနကာဘိဝံသက ဤ "ပြုပြင်ရေး" စကားကို များစွာပြောခဲ့၏၊ ဟောခဲ့၏၊ ရေးသားခဲ့၏၊ "ဝိုင်းဝန်းပြုပြင်ကြပါစို့"လို့ လှုံ့ဆော်ဟစ်အော်ခဲ့လေသည်၊ ပြုပြင်နိုင်မည့် အချိန်ကိုလည်း မျှော်မှန်းတမ်းတခဲ့၏၊ သို့သော် မျှော်လေတိုင်း ဝေးခဲ့ရလေသည်။

### အဝိုလွယ် အရှိက်ခက်မှာ စိုးလို့

သို့ဖြစ်၍ တစ်နေ့သော နံနက်ခင်း ဩဝါဒပေးရာ၌ သူ့အာရုံတွင် မည်သို့ ပေါ်ထင်လာသည်မသိ, သာသနာတော်၌ ယိုယွင်းနေသော အခြေအနေတို့ကို ပြုပြင်ဖို့နှင့် စပ်၍ အောက်ပါအတိုင်း ဆရာတော်က ပုံပြင်လေးတစ်ပုဒ်ကို ပြောပြပါတော့သည်။

"တစ်ခါတုန်းက... လင်မယား နှစ်ယောက် စကားပြော အပေါက်အလမ်း မတည့်ရာက စပြီး ကတောက်ကဆတ်နှင့် ရန်ဖြစ်ကြသတဲ့၊ တထေ့တထေ့နဲ့ တစ်ယောက်အပေါ် တစ်ယောက် ကြက်ခေါင်းဆိတ်မခံ သူတစ်ပြန် ကိုယ်တစ်ပြန် ပြောကြရင်းက ဒေါသအရှိန် ပြင်းလာကြတာပေါ့၊ ဒီတွင် မိန်းမက ယောက်ျားကို အိမ်ပေါ်က နှင်ချပါလေရော၊ မိန်းမက အိမ်ပိုင် ယာပိုင်ဆိုတော့ ယောက်ျားကို နှင်ချနိုင်တာပေါ့၊ "အိမ်တွင်းရှိ ပစ္စည်းတွေကို ရှင် တစ်ဝက်ခွဲယူ, အိမ်က ဆင်းတော့"လို့ မိန်းမက ဆိုတယ်။

ဒီတော့ ယောက်ျားက ပြောသတဲ့ "မင်း-စဉ်းစားဦးနော, ငါ ဆင်းသွားတာက အလွယ်ကလေး၊ နောင်တစ်ချိန်မှာ မင်း စိတ်ပြေလာလို့ ငါ့ကို ပြန်ခေါ်ရင် ငါက နဂါးခေါင်း မတည့်သေးဘူးဆိုပြီး အိမ်ပေါ် ပြန်မတက်လို့ မင်း အခက်တွေ့နေဦးမယ်"

ဒီတော့ မိန်းမက "အို-ရှင် ဘာတွေ လျှောက်ပြောနေတာလဲ, စကားကြော မရှည်နဲ့, ပစ္စည်း တစ်ဝက် ခွဲပေးပြီးပြီ၊ အိမ်ပေါ်က အခု ဆင်းသွား"လို့ ထပ်မံ ဆိုတော့ ယောက်ျားက အေးအေးဆေးဆေးပဲ လေသံပျော့နဲ့ "မင်း-စဉ်းစားပါဦးကွာ, အဝိုလွယ် အရှိက်ခက် ဖြစ်နေပါဦးမယ်"လို့ ပြောပြန်သတဲ့။

ဒီတွင် မိန်းမက ပိုမို စိတ်ဆိုးလာပြီး "အို မစဉ်းစားနိုင်ဘူး, မစဉ်းစားနိုင်ဘူး, ရှင်ဆင်းမှာသာ ဆင်းသွား"လို့ ဒေါနဲ့ မောနဲ့ ပြောတော့ ယောက်ျားက "အေး-မင်း မစဉ်းစားနိုင်ပေမယ့် ငါကတော့ စဉ်းစားရဦးမယ်"လို့ ဆိုသတဲ့။

## ဘုန်းကြီးလဲ စဉ်းစားရဦးမယ်

"အဲဒီအတိုင်းပဲ ဘုန်းကြီးမှာလဲ ဘုန်းကြီးက... သာသနာရေး အခြေအနေတွေကို အားမရနိုင်လို့ "ပြုပြင်ချင်တယ်, ပြုပြင်ချင်တယ်"လို့ ပြောခဲ့တာကြာပြီ၊ အဲလို ပြုပြင်တဲ့နေရာမှာ အစွမ်းရှိတဲ့ ဆရာတော်တွေ ဂိုဏ်းပေါင်းစုံက အမြင်ကျယ်တဲ့ သံဃာတော်တွေ အားလုံးစုပြီး ညီညီနိုင်းနိုင်းနဲ့ တိုင်ပင်၍ ပြုပြင်လိုက်ကြရင်... ဘာ မဖြစ်နိုင်စရာ ရှိမလဲ၊ ဖြစ်ရမှာပေါ့၊ အစိုးရနှင့် ဒါယကာ ဒါယိကာမတွေရဲ့ အကူအညီတွေကို ယူပြီး ပြုပြင်ကြရင် ဖြစ်နိုင်ရမှာပေါ့။

အခုတော့ သူတစ်မျိုး ငါတစ်ဖုံ, သူ့အုပ်စု ငါ့အုပ်စုနဲ့၊ ညှိလို့ မရ, နှိုင်းလို့မရ၊ ကိစ္စကလေးတစ်ခု ပေါ်လာ "ငါလုပ်တာမှ ဟုတ်ရမှ"ဆိုတာမျိုးလို ဖြစ်နေကြတော့ ဘယ်မှာ အလုပ် အောင်မြင်နိုင်တော့မလဲ၊ ဒီလို အခြေအနေမျိုး ဖြစ်နေတာကို အခြားပုဂ္ဂိုလ်တစ်ဦးဦးက ဘုန်းကြီးကို လာပြောမယ်ဆိုပါတော့...

"ကိုယ်တော်ရယ်, ဒီပြုပြင်ရေးကြီးကို ဒီလောက်စိတ်အား သန်မနေစမ်းပါနဲ့, ကိုယ်တော့်ဟာက သွားလဲ ဒီစိတ်, စားလဲ ဒီစိတ် ဆိုတာမျိုးလိုပဲ၊ ကိုယ်တော့် ရည်မှန်းချက်ကြီးကလဲ ကျယ်ဝန်းပါဘိနဲ့, စဉ်းစားတိုင်း ဝေးဝေးသွားရတဲ့ ကိစ္စကြီး။

ဒီတော့ စဉ်းစားမနေစမ်းပါနဲ့ ကိုယ်တော်..., ကိုယ့်ဟာကိုယ် တစ်ပါးတည်း ပုတီးကလေး စိပ်, သစ်ရိပ်ကလေး ခို, ချမ်းသာသလို အေးအေးနေရင် ပြီးတဲ့ကိစ္စ"လို့ တစ်ဦးဦးက ပြောလာရင် ဘုန်းကြီးက ပြန်ပြောမိမှာပဲ၊ ဘယ်လို ပြောမလဲဆိုရင်...

"အင်း စဉ်းစားမနေစမ်းပါနဲ့ ဆိုပေမယ့် ဘုန်းကြီးကတော့ စဉ်းစားရဦးမှာပဲလို့" ဟူ၍ ပြုံးပြုံးကြီး မိန့်တော်မူဖူးသည်။

ဤသို့လျှင် ဆရာတော်က သာသနာတော်ကြီးအပေါ် သံယောဇဉ်ကြီးပုံ, လက်ရှိသာသနာတော်၏ အခြေအနေအပေါ် အားမရနိုင်သေးပုံကို ဖော်ပြနေပါတော့သည်။

# နိဗ္ဗာန်ဈေးကြီး တည်ခင်းရောင်းချခြင်း

## ကြဲကြဲဖန်ဖန် စီမံ၍ လှူကြပုံ

တစ်ခါတုန်းက အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက် ဥယျာဉ်မြိုင်တွင်း၌ နိဗ္ဗာန်ဈေးကြီး တည်ခင်းရောင်းချခဲ့ဖူးသည်။

ကုန်ပစ္စည်းတို့မှာ... ဒံပေါက်, ထမင်းကြော်, ခေါက်ဆွဲ, မုန့်တီ, မုန့်ဟင်းခါး, ကြာဆံဟင်း, ကော်ဖီနှင့် ကိတ်မုန့်, လက်ဖက်ရည်ကြမ်းနှင့် လက်ဖက်သုပ်, ဆနွင်းမကင်း, ရေခဲမုန့်, လမုန့်, ထိုးမုန့် စသည်တို့ ဖြစ်ကြ၏၊ ပြင်ဆင်ထားသည်မှာ စားချင်စရာများချည်း ဖြစ်သည်။

ဒါယကာ ဒါယိကာမတို့ကား သာသနာ့ဝန်ထမ်းရှင် ရဟန်းတို့ အပေါ်တွင် တာဝန်ကျေကြပေ၏၊ ရိုးရိုး လှူရုံဖြင့် အားမရ၍ "နိဗ္ဗာန်ဈေးကြီး"ပင် တည်ခင်းပြီး လှူဒါန်းခဲ့ကြခြင်း ဖြစ်သည် ဟူ၏၊ ကြဲကြဲဖန်ဖန် စီမံ၍ လှူဒါန်းကြခြင်းပေတည်း။

ဤ နိဗ္ဗာန်ဈေးအကြောင်းကို ပြည့်ပြည့်စုံစုံ မဖော်ပြသေးမီ ရှေးတုန်းက ဤမဟာဂန္ဓာရုံတိုက်၏ အခြေအနေကို ဦးစွာ တင်ပြလိုပါသေးသည်။

ဆရာတော် အရှင်ဇနကာဘိဝံသ၏ ဤ မဟာဂန္ဓာရုံ၌ စာသင်တိုက်အဖြစ် စတင် ဖွင့်လှစ်စဉ် ရှေ့ပိုင်းအခြေအနေကို တင်ပြလိုခြင်း ဖြစ်ပါသည်။

## မဟာဂန္ဓာရုံ၏ ရှေ့ပိုင်းအခြေအနေ

ဤမဟာဂန္ဓာရုံတိုက်သည် အစပိုင်းက မြေနေရာလည်း ဤမျှလောက် မကျယ်ဝန်းသေးပါ၊ အဆောက်အအုံကလည်း အနည်းငယ်မျှသာ၊ သံဃာများလည်း သိပ်မများသေးပါ၊ ထိုစဉ်က စာသင်သားတို့သည် ဦးစွာ ပထမ တောတိုးရသူများဖြစ်၍ အလွန် ပင်ပန်းဆင်းရဲကြပါ၏။

နံနက်ပိုင်း နေ့လယ်ပိုင်း၌သာ စာတက်-စာကျက် စာချမှုကိစ္စများရှိ၍ ညနေ ၄ နာရီထိုးပြီဆိုလျှင် နေ့စဉ် နေ့တိုင်း အလုပ်ခွင်သို့ ဝင်ကြရသည်၊ သာမဏေအချို့က မြေကို ပေါက်ပြားဖြင့် ပေါက်ရ၏၊ ကုန်းကမူကို ဖြိုရ, ချိုင့်ဝှမ်းရာကို ဖြည့်သိပ်ရ, တောချုံများကို ရှင်းရသည်၊ အချို့သာမဏေများက သစ်ပင်တို့ကို ခုတ်လှဲရ၏၊ ရဟန်းအချို့တို့က လှဲပြီးသားမှ အကိုင်းအခက် အလက်တို့ကို ဖြတ်တောက်ကြရသည်၊ အချို့က ထင်းပေါက်ကြရ၏၊ နေ့စဉ် လုပ်ငန်းများပင်တည်း၊ ထိုမျှလောက် ဆင်းရဲပင်ပန်းကြသော်လည်း တပည့်တို့အား ဆရာတော်က စတုမဓုကလေးမျှ ကျွေးစရာမရှိ ဖျော်ရည်ကလေးမျှ တိုက်စရာမရှိ ညနေတိုင်မှ ထုံးစံအတိုင်း ကျိုပြီးသား ထန်းလျက်ရည် မတ်ခွက်တစ်ခွက်စီမျှ ရကြသည်။

နံနက်ပိုင်းတွင်လည်း ထူးထူးထွေထွေ မစားရကြပါ၊ စားသောက်ရေးမှာလည်း မျှတရုံမျှသာ အနိုင်နိုင်၊ လာဘ်လာဘလည်း အလွန်ရှားပါးကြပါသည်။

## လိုက်လျောမှုနှင့် ခွင့်လွှတ်ခြင်း

ဤသည့်အဖြစ်ကို ဆရာတော်က တပည့်တို့အပေါ်တွင် သနားကရုဏာသက်မိရှာဟန်တူပါသည်၊ ထို့ကြောင့် တစ်ခါတလေတွင် မုန့်ဟင်းခါးသည် မိန်းမကြီးကို ကျောင်းထဲသို့ ခေါ်၍ ပါလာသော တစ်တောင်းလုံးကို ကပ္ပိပြီးလျှင် တပည့်တို့အား ပျော်ပျော်ပါးပါး စားစေ၏။

ထိုအခါမျိုးတွင် အထူးခွင့်လွှတ်တော်မူသည်၊ ဆွမ်းစားကျောင်းသို့ သွား၍ ကျကျနန ထိုင်ပြီးမစားရ၊ အရိပ်ကောင်းသော သစ်ပင်ကြီးများအောက်သို့ စုရုံးစေကာ လွတ်လွတ်လပ်လပ် စားစေပါသည်၊ ခါတိုင်းဆိုလျှင် စည်းကမ်း အလွန်ကြီးတော်မူ၏၊ စားသောက်နေကြစဉ် စကားမပြောရ၊ တိတ်ဆိတ်ငြိမ်သက်စွာ စားကြရသည်၊ ယခုမူ ထိုသို့မဟုတ်ပေ၊ စကားများ ပြောနိုင်၏၊ ထိုင်လျက်လည်း မစားရ၊ မိုးတိုးမတ်တတ် စားကြရမည်ဟု အမိန့်ထုတ်သည်။

စားသည့်အခါတွင်လည်း ဘယ်နှစ်ကြိမ် ယူယူ, ဘယ်နှစ်ခွက် စားစား, စားချင်သလောက် အဝစား, ကိုယ့်ဘာသာကိုယ် ကြိုက်သလောက် ထည့်စား, ကိုယ့်စိတ်ကြိုက် ကိုယ့်ဘာသာကိုယ်ပြင်, ငံပြာရည် ဆီကျက် ပဲမှုန့် ကြက်သွန်ကြော် ကြိုက်သလောက် ထည့်ဟူ၍ ခွင့်ပြုတော်မူ၏

## ရှေးဖြစ်ဟောင်း အောက်မေ့မိ

ထို့ပြင် "ငါ ငယ်ငယ်တုန်းက အခုလို လွတ်လွတ်လပ်လပ် စားရတာ ပျော်လွန်းလို့"ဟူ၍လည်း မိန့်တော်မူသေးသည်၊ တောင်းထဲက မုန့်တွေရော, ငံပြာရည် ဆီကျက် ပဲမှုန့် ကြက်သွန်ကြော်တွေပါ အကုန်ပြောင်မှပင် ပြန်၍ လွှတ်လိုက်သည်၊ ကုန်ကျသမျှ ဆရာတော်က ကပ္ပိယဖြင့် အဖိုး ချေစေ၏။

တစ်ခါတလေ တို့ဟူးသည်ကြီး, တစ်ခါတလေ ဘူးသီးကြော်သည့် မိန်းမကြီးကို မှာ၍ ဘူးသီးများ ကြော်စေပြီး အဝကျွေးတတ်သည်၊ ထိုအခါမျိုးတွင် အလွန်ပျော်စရာ ကောင်းလှဘိခြင်း။

တစ်ခါတစ်ရံတွင် ကျောင်းအမကြီး ဒေါ်မှတ် (အမေမှတ်)ကလည်း လာ၍ကျွေးတတ်၏၊ ကျောင်းအမကြီးအမေမှတ်ကား လူတစ်မျိုးဖြစ်သည်၊ အများတကာ မော်တော်ကားတစီစီနဲ့ ခေတ်စားနေချိန်မှာ သူက နွားလှည်းကြီးဖြင့် မုန့်တီတွေ တင်လာပြီး တအိအိနှင့် ကျောင်းထဲသို့ ဝင်လာတတ်၏။

သူ့နေအိမ်မှာ အုတ်တိုက်ကြီးဖြင့်နေသော်လည်း ကျောင်းသို့ လာရာ၌ နွားလှည်းကြီးဖြင့် တအိအိ လာတတ်သည်၊ ကျောင်းသို့ ရောက်လျှင် "သူကိုယ်တိုင် ပြင်၍ သားကိုရင် သားဦးပဉ္စင်းများကို ကျွေးရမှ"ဟု ဆို၏။

ထိုအခါ ဆရာတော်က ခွင့်ပြုရတော့သည်၊ ဆရာတော့်ကိုလည်း "သား မောင်ဇနက" ဟူ၍ ခေါ်လေ့ရှိသဖြင့် သူ့ဝေါဟာရကလေးက ဆရာတော့် နားကို ချိုစေပါလိမ့်မည်။

ဤအခါမျိုးတွင် အထူး ခွင့်ပြုသည့်အနေဖြင့် အရိပ်ကောင်းသော သစ်ပင်ကြီးတွေအောက်မှာပင် ကျွေးစေသည်၊ ဤသို့သော ရှေးဖြစ်ဟောင်းကလေးများကို ပြန်ပြောင်း၍ သတိရကြသောအခါ လွမ်းစရာလိုလို ဘာလိုလို ဖြစ်မိကြရတော့၏။

## (အမတာပဏ)နိဗ္ဗာန်ဈေး

ယခုအခါတွင်ကား မဟာဂန္ဓာရုံကျောင်းတိုက်၌ အစစ အရာရာ အသွင်ပြောင်းလဲခဲ့လေပြီတည်း၊ အဘက်ဘက်မှ ပြည့်စုံလျက် တိုးတက်လာခဲ့ကြ၏၊ ကျွေးမွေးထောက်ပံ့ လှူဒါန်းကြသော ဒါယကာ ဒါယိကာမတို့ကလည်း အမျိုးမျိုးဖန်တီး၍ လှူဒါန်းလာကြသည်၊ ယခုအခါ "(အမတာပဏ)နိဗ္ဗာန်ဈေး" ဟူ၍ပင် နာမည်ပေးကာ ကြိကြိဖန်ဖန် စီမံ၍ လှူဒါန်းလာကြသည်။

၁၃၃၂ ခုနှစ် နှောင်းတန်ခူးလပြည့်နေ့က ဖြစ်ပါ၏၊ မဟာဂန္ဓာရုံကျောင်းတိုက် ဥယျာဉ်အတွင်း အရိပ်ကောင်းသော သစ်ပင်ကြီးတွေအောက် သန့်ရှင်းသော မြေအပြင်တွင် "နိဗ္ဗာန်ဈေးကြီး" ခင်းကြလေတော့သည်။

ပြင်ဆင်ထားပုံမှာ ကျယ်ပြန့်သော ခုတင်ကြီးများ စီတန်းခင်းထားကြ၏၊ ပြီးမှ ထိုအပေါ်တွင် သန့်စင်သော အခင်းများ ဖုံးလွှမ်းကာ စားပွဲခုံများ အသင့်ချထားသည်၊ အလှူ့ဒကာ အလှူ့အမတို့က စားသောက်ရန် လှူဒါန်းဖွယ်ပစ္စည်းများကို တင်ကာ မိမိတို့ဆိုင်ရှေ့မှာ အသင့်စောင့်နေကြရ၏၊ ရာဇမတ်များလည်း ကာရံထားသည်။

## ဈေးမဆစ်ဘဲ ဝယ်မည့်သူများ

သံဃာတော်များက သက်န်းရုံ သပိတ်ပိုက်၍ စီတန်းကြွလာကြရ၏၊ ဆိုင်ရှေ့သို့ ရောက်လာသော သံဃာတော်တို့အား ကြိုက်ရာ နှစ်သက်ရာပစ္စည်းတို့ကို အလိုရှိသလို ဝယ်ယူဘုန်းပေးပါရန် ရောင်းချကြသည်၊ "ရောင်းချကြသည်" ဆိုရာ၌ ရောင်းရန်ကုန်ပစ္စည်းများမှာ လှူဖွယ်ဒါနများ ဖြစ်ကြ၏၊ နိဗ္ဗာန်ကို ရည်မှန်း၍ ရောင်းချကြရမည်၊ ထို့ကြောင့် "နိဗ္ဗာန်ဈေး"ဟု အမည်ပေးထား၏။

သံဃာတော်တို့ကမူ သီလ သမာဓိ ပညာ မေတ္တာဘာဝနာအဖိုးအခတို့ဖြင့် ဝယ်ယူစားသောက်ကြရမည် ဖြစ်သည်၊ တစ်ဆိုင်ပြီး တစ်ဆိုင် ရွေ့ကာ ရွေ့ကာ ကြိုက်ရာကို ရွေး, ဈေးမဆစ်ဘဲ အလှူခံဘုဉ်းပေးနိုင်ကြ၏၊ ဤနည်းဖြင့် တစ်နေ့အတွက် ဆွမ်းတစ်ထပ်စာ ပြီးစီးစေတော့သည်။

## ရောင်းကုန်ပစ္စည်းများနှင့် ဆိုင်ရှင် ဒါယကာ ဒါယိကာမများ

၁။ **ဆွမ်းသုပ်...** ကိုလှမောင်+မမြခင်၊ ကွမ်းသီးတန်း အမရပူရမြို့။
၂။ **ဒံပေါက်...** ဦးအုန်းမောင်နှင့်အဖွဲ့၊ တံတားဦးမြို့။
၃။ **ဆီချက်ခေါက်ဆွဲ...** ဒေါ်အုန်းလှ, ဒေါ်တင်ရွှေ၊ တောင်ငူမြို့။
၄။ **ကြာစံဟင်းချို...** မဘေဘီ, မကျင်သန်း၊ ဓားတန်းရပ် မန္တလေးမြို့။
၅။ **လမုန့်နှင့် မလိုင်လုံး...** တံတားဦးမြို့မှ ယောဂီအဖွဲ့။
၆။ **ထိုးမုန့်...** ဒေါ်သိန်းမေ၊ မျက်ပါးရပ်၊ မန္တလေးမြို့။
၇။ **ကော်ဖီနှင့် သစ်သီးကိတ်...** ဒေါ်စုစုနှင့်အမျိုးသမီးများ၊ ရန်ကုန်နှင့် မန္တလေး။
၈။ **ကျောက်မဲလက်ဖက်သုပ်...** ကျောင်းတိုက်နှင့်ရင်းနှီးသော ဒါယကာ ဒါယိကာမများ။

၉။ ရွှေရင်အေး...ဒေါ်သန်း၊ ဓားတန်းရေခဲစက်၊ မန္တလေးမြို့။
၁၀။ နံနက်အရုဏ်ဆွမ်း...ဒေါ်တင်ရွှေ၊ တောင်ငူမြို့။
၁၁။ သကြား ၂၈ ပိဿာ...မောင်အောင်မင်း၊ တောင်ငူမြို့။
၁၂။ ကျောင်းတိုက်နဝကမ္မ...ဒေါ်တင်ရွှေ၊ ဒေါ်အေးသာတို့အဖွဲ့၊ တောင်ငူမြို့တို့ ဖြစ်ကြသည်။

ဤအလှူပွဲကြီးနှင့်ပတ်သက်ပြီး မိလိန္ဒပဉှာ အနုမာနပုစ္ဆာအခန်း၌လာသော ဂါထာကို ဆရာတော်က အနက်ရေး၍ အကျယ်တဝင့် အဓိပ္ပာယ်ရှင်းပြပြီး တရားဟောတော်မူသည်။

## နိဗ္ဗာန်ဈေး

* ဗျာဓိတံ ဇနတံ ဒိသွာ,
အမတာပဏံ ပသာရယိ၊
ကမ္မေန တံ ကိဏိတွာန,
အမတံ အာဒေထ ဘိက္ခဝေါ။

ဘိက္ခဝေါ-ငါ၏ဆိုင်ရာ, သာသနာဝယ်, ဝန်တာကိုထမ်း, အို...ရဟန်းတို့၊ ဗျာဓိတံ-ကိုးဆယ့်ခြောက်ဖြာ, ဘေးရောဂါနှင့်, အိုနာသေမှု, ဘေးထုပြင်းပြ, ခံစား၍ နေရသော၊ ဇနတံ-လူနတ်ဗြဟ္မာ, သတ္တဝါအပေါင်းကို၊ ဒိသွာ-ဉာဏ်အားထင်ထင်, တွေ့မြင်ရသည်ဖြစ်၍၊ အမတာပဏံ-အိုနာသေရေး, ဒုက္ခဘေးတို့, ကင်းဝေးစေရန်, စိတ်အကြံဖြင့်, မိဗ္ဗာန်ဈေးအေး, နိဗ္ဗာန်ဈေးကို၊ ပသာရယိ-စွမ်းနိုင်သူများ, ဝယ်ယူစားဖို့, ခမ်းနားသန့်ရှင်း, ဖြန့်ခင်းတော်မူလိုက်ပေပြီ။

တံ အမတာပဏံ-အမြိုက်ခေါ်ရေး, ထိုနိဗ္ဗာန်ဈေးကို၊ ကမ္မေန-ဒါန သီလာ, ဘာဝနာဟု, လွန်စွာကြီးကုတ်, အလုပ်အနေ, အဖိုးငွေဖြင့်၊ ကိဏိတွာန-ဈေးလည်းမဆစ်, ငွေမထစ်ဘဲ, စနစ်မပယ်, ကောင်းစွာဝယ်၍၊ အမတံ-အိုနာသေမှု, ဘေးထုကင်းကွာ, မြိုက်သုဓာကို၊ အာဒေထ-အခွင့်သာတောင်း, အခါကောင်း၌, အကြောင်းတိုက်ဆုံ, ကြိုးစား၍ ဝယ်ယူလိုက်ကြကုန်ရာသတည်း။

## မြတ်စွာဘုရား တည်ထားသောမြို့ကြီး

မိလိန္ဒမင်းကြီးက မေးလျှောက်၍ အရှင်နာဂသိန်မထေရ်က ဥပမာဖြင့် ဖြေကြားသည်မှာ..."မြတ်စွာဘုရားက မြို့တော်ကြီးတစ်ခု တည်ထားပါသတဲ့၊ အဲဒီ မြို့တော်ကြီးကို "ဓမ္မမြို့တော်"လို့ အမည်ပေးသတဲ့။

မြို့တော်ကြီးကို သီလအုတ်တံတိုင်း မြို့ရိုးကျုံးကြီးများဖြင့် ပတ်ပတ်လည် ကာရံလို့, မြို့တော်အတွင်း ဖြောင့်ဖြူးကျယ်ပြန့်တဲ့ သတိပဋ္ဌာန်လမ်းမကြီးတွေ ဖောက်လို့, အရပ်လေးမျက်နှာက လာ၍ ဆုံတဲ့ သုတ္တန်လမ်းခွ, အဘိဓမ္မာလမ်းဆုံ, ဝိနည်းတရားခုံရုံးတရားတော်ကြီးများလည်း ဖွင့်ထားသတဲ့။

အလယ်ခေါင်မှာ ရှိတဲ့ အဆောက်အအုံကြီးကတော့ ပညာပြာသာဒ် အထွတ်အဖူး တုရင် မုန်ကင်းကြီးနဲ့ မိုးထိနီးပါး မြင့်ဟည်းနေသတဲ့၊ မြို့တော်အဝင်ဝ မုခ်ဦးပေါက်ကြီးကတော့ ဉာဏ်မုခ်ဝကြီး, ဝီရိယရင်တားပစွင်, သဒ္ဓါတံခါး(တုရိဏ်)တိုင်ကြီး, မုခ်ဦးအဝ အမြဲစောင့်နေတာက သတိဒရဝမ်၊ ဤသို့စသည့် အင်္ဂါရပ်စုံညီသော မြို့တော်ကြီးတစ်ခုကို တည်ထားပါသတဲ့။

* မိလိန္ဒပဉှာ – ၃၁၉။

## မြို့တော်အတွင်း ဈေးဆိုင်တန်းကြီးခင်း

ဤသို့သော မြို့တော်ကြီးအတွင်းမှာ မြတ်စွာဘုရားက ဗဟိုဈေးရုံကြီး ဖွင့်ထားပါသတဲ့၊ နာမည်ကိုတော့ "နိဗ္ဗာန်ဈေး"လို့ အမည်ပေးထားပြီးလျှင် ထိုအတွင်းမှာ အလှအပ အကြွအရွ ရောင်စုံပန်းပွင့်ပန်းခိုင်တွေ ရောင်းသော ပန်းဈေးတန်းကြီး၊ မွှေးပျံ့သော နံ့သာ ကရမက် သနပ်ခါး ပေါင်ဒါ ရောင်းသော ဆိုင်တန်းကြီး၊ စားကောင်းသောက်ဖွယ် သစ်သီးဝလံမျိုးစုံရောင်းသော သစ်သီးတန်းကြီးနှင့် အို နာ သေ ရောဂါတွေ ပျောက်ကင်းစေနိုင်သော ဆေးမျိုးစုံရောင်းသည့် ဘယဆေးဆိုင်တန်း၊ နားကပ် လက်စွပ် ဆွဲကြိုး ဘယက်တန်ဆာ ဒွါဒရာ ရတနာမျိုးစုံရောင်းသော ရွှေဆိုင်တန်း၊ ချမ်းမြေ့အေးလှိုက် အမြိုက်ရေစင် အမြိုက်သုဓာတွေရောင်းသော "အမတာပဏ"ဈေးတန်း၊ ထွေထွေရာရာ "စုရတိ" ကုန်မျိုးစုံရောင်းသောအတန်း"ဟူ၍ ခမ်းခမ်းနားနား ခင်းကျင်းထားပါသတဲ့။

သတ္တဝါအများတို့သည် မိမိတို့ ကြိုက်နှစ်သက်ရာ ဝယ်ယူ သုံးစွဲနိုင်ကြသည်ဟု ဆို၏။

## ဝယ်ချင်စရာ ကုန်ပစ္စည်းများမှာ

ထိုတွင် "ပန်းမျိုးစုံ"ဟူသည်မှာ အနိစ္စ ဒုက္ခ အနတ္တ အသုဘသညာ အာနာပါန စသော အာရုံပန်းတို့ကို ဆိုလိုပါသတဲ့၊ မွှေးပျံ့သောနံ့သာ ကရမက်ဟူသည်ကား သီလရနံ့တို့ကို ဆိုလိုသည်၊ သီလရနံ့မှာ ဝန်းကျင်မျက်နှာ၊ ဆယ်ဖြာပတ်နှောက်၊ ထက်အောက်အနှံ့၊ မွှေးပျံ့သင်းလှိုင်၊ ကြိုင်စေနိုင်ပါသတဲ့။

သစ်သီးတန်းဟူသည် မဂ်သီး ဖိုလ်သီးများကို ဆိုလို၏၊ ဘယဆေးများဟူသည်ကား သတိပဋ္ဌာန် သမ္မပ္ပဓာန် ဣဒ္ဓိပါဒ် ဣန္ဒြေ ဗိုလ် ဗောဇ္ဈင် မဂ္ဂင်တို့ကို ဆိုလိုသည်၊ ယင်းဆေးတို့ဖြင့် ကုသပါက အို နာ သေ ရောဂါတို့ ပျောက်ကင်း၍ မအို မနာ မသေနိုင်တော့ပြီ။

စိန်ရွှေရတနာ တန်ဆာများဟူသည် သီလ သမာဓိ ပညာ စသည်တို့ကို ဆိုလို၏၊ "အမြိုက်သုဓာ အမြိုက်ဆေး"ဟူသည်ကား ကာယဂတာသတိကို ဆိုလိုပါသတဲ့၊ ခန္ဓာကိုယ်တစ်ခုလုံး ၃၂ ကောဋ္ဌာသ၌ သတိကပ်၍ ရှုမှတ် ပွားများရသော ကာယဂတာသတိကို "အမြိုက်သုဓာ"ဟူ၍ ဆို၏၊ "အမြိုက်သုဓာ"လို အရသာ ရှိစေသောတရားဟု တင်စားထားခြင်း ဖြစ်ပါသည်။

## ဈေးမဆစ်ဘဲ ဝယ်လိုက်ကြ

ထိုစကား မှန်ပါ၏၊ တစ်နေရာတွင် မြတ်စွာဘုရားက * **(အမတံ တေ ဘိက္ခဝေ ပရိဘုဥ္ဇန္တိ၊ ယေ ကာယဂတာသတိံ ပရိဘုဥ္ဇန္တိ)** "ကာယဂတာသတိကို သုံးဆောင်သော သူတို့သည် အမြိုက်သုဓာကို သုံးဆောင်ကြသည် မည်၏"ဟူ၍ပင် မိန့်တော်မူထားပါသည်။

မြတ်စွာဘုရားက... အိုနာသေဝေနေယျတို့ကို လောက၌ မြင်ထား၍ ကုစားနိုင်ဖို့ရာ "နိဗ္ဗာန်ဈေးကြီး"ဖွင့်ထားသတဲ့၊ "သီလ သမာဓိ ပညာ အဖိုးအခများ ပေး၍ မည်သူမဆို လွတ်လွတ်လပ်လပ် ဝယ်ယူနိုင်ကြသည်၊ ဝယ်လိုက်ကြ"ဟူ၍ မြတ်စွာဘုရားက မိန့်တော်မူလေဟန်ကို အရှင်နာဂသိန်က ပြောပြသည်။

ဤသည်ကို အဓိပ္ပာယ်ပေါ်လွင်အောင် ဆရာတော် အရှင်ဇနကာဘိဝံသက ဂါထာအနက် ဖွင့်ဆိုရေးသား၍ ဟောကြားထားခြင်း ဖြစ်ပါသည်။

ဈေးတန်းကြီး ဖွင့်ထားတုန်း၊ လူ့ဘဝကိုလည်း ရတုန်း အခွင့်အခါ ကောင်းခိုက်မှာ ဈေးလည်း မဆစ် ငွေ မထစ်ဘဲ ဝယ်ဖြစ်အောင် ဝယ်လိုက်ကြကုန်လော့ဟု ဆိုလိုပါသတည်း။

---

* အင်္ဂုတ္တရ၊ ၁ ၊ ၄၇။

# ဆရာတော် သက်သတ်လွတ်စားခြင်း

## သာသနာပြုရာ၌ အကူအညီရချင်လို့

"သာသနာတော်ကြီးကို စောင့်ရှောက်ကြရာ၌ ဒါယကာ ဒါယိကာမတို့ဘက်က တာဝန်ကျေကြတယ်၊ ဆွမ်း သင်္ကန်း ကျောင်း ဆေး ပစ္စည်းလေးပါးတို့ဖြင့် မချို့မငဲ့ရအောင် သူတို့ဘက်က တာဝန်ကျေကြတယ်၊ မိမိတို့ ရဟန်းတော်များဘက်ကသာ လျော့ရဲရဲ ဖြစ်နေတာကို တွေ့ရတယ်၊ အလုပ်လုပ်မှု နည်းကြတယ်၊ ကိုယ်စီ ကိုယ်င အလုပ် လုပ်ကြမှ ဖြစ်မယ်, သွေးအေးနေကြလို့ မဖြစ်ဘူး"။

ဤသို့လျှင် ဆရာတော်က စိတ်အရေးကြီးနေသလို မိန့်မြွက်တော်မူတတ်၏၊ ဘုရားရှင်အကြိုက် သီလ ဦးစားပေးသော သာသနာပြုပြင်ရေးကြီး အတွက်လည်း အားမလို အားမရ ဖြစ်နေရဟန် တူသည်။

၁၃၃၃ ခု နယုန်လဆန်းပိုင်းက ဖြစ်၏၊ ဆရာတော် သက်သတ်လွတ် စ၍ စားလာသည်၊ ရှေးတုန်းက သက်သတ်လွတ်ကို အားမပေးခဲ့၊ ယခု ဆရာတော်၏ သက်တော်မှာလည်း ၇၂ နှစ်တွင်းသို့ ရောက်လာသည်၊ သံဃာများလည်း တရွေ့ရွေ့ တိုးလာကြ၏၊ ရှေးက သံဃာ ၂၀၀ ကျော်မျှဖြင့် နှစ်ပေါင်းများစွာ ကြာခဲ့သည်၊ လွန်ခဲ့သော ဝါတွင်းက ၃၀၀ ကျော်လာခဲ့၏။

ယခုနှစ်ဝါဦးမှာ ၄၀၀ ကျော်လာသည်၊ သို့ဖြစ်၍ ဆရာတော်မှာ သံဃာများ၏ စားဝတ် နေရေး အတွက်လည်း စိုးရိမ်စိတ်များ ဝင်လာဟန် တူ၏၊ ပြုပြင်ရေးကြီးအတွက်လည်း စိတ်စောနေဟန် တူသည်၊ ထို့ကြောင့် မေတ္တာကို များများပို့၍ သမ္မာဒေဝနတ်များကိုပါ ကူညီဖို့ မြူဆွယ်လေတော့သည်။

"အောက်နတ်များက အသားစား မရှောင်ကြသော်လည်း အထက်နတ်များကမူ အသားစား ရှောင်ကြ၍ သာသနာတော်ကိုလည်း ကြည်ညိုကြ၏"ဟု စာလာပေလာအရ သိရသည်။

သို့ဖြစ်၍ "သာသနာပြုပြင်ရာတွင် အထက်နတ်ကြီးများ၏ အကူအညီကို ရနိုင်အောင် အထက်နတ်ကြီးများအကြိုက် သက်သတ်လွတ် စားသည်"ဟု ဆရာတော်က ဝန်ခံထား၏၊ "ကုသိုလ်ရအောင်လို့" ဟု မဆိုလိုပါ တဲ့။

"ယခု ပြုလုပ်ဆောင်ရွက်နေသော သာသနာပြု အလုပ်သည် မိမိတစ်ဦးတည်း, တစ်ကျောင်းတိုက်တည်း, တစ်ဂိုဏ်းတည်းအတွက် ကွက်ကွက်ကလေးမျှ မဟုတ်ပါ။

တစ်သာသနာလုံးအတွက် ဂုဏ်ကျက်သရေ ရှိရေး ကျယ်ကျယ်ပြန့်ပြန့် ဆောင်ရွက်နိုင်ဖို့ရာ, ဘုရားသာသနာတော်ကြီး အရှည်ခံ၍ တည်တံ့ သန့်ရှင်းနိုင်ဖို့ရာ ကြိုးစားနေခြင်း ဖြစ်ပါသည်၊ ကျေနပ်လျှင် ဝိုင်းဝန်းကူညီကြပါ"ဟူသော မျှော်လင့်ခြင်းမျိုးဖြင့် မြူဆွယ်ခြင်း ဖြစ်သည်။

## တရွတ်ကလေးပြောသလို သုံးပုံနှစ်ပုံ သေရှာပြီ

ဤသို့လျှင် ဆရာတော့်မှာ သာသနာပြုပြင်ဖို့ အတွက် လက်လှမ်းမီရာဟူသမျှ, အကူအညီရမည် ထင်ရာ ဟူသမျှ တောင့်တ မျှော်လင့်မိခြင်း ဖြစ်၏၊ သက်တော် ၇၀ ဝန်းကျင်ကပင် စတင်၍ မဟာဂန္ဓာရုံကျောင်းတိုက်တွင်းသို့ အစိုးရပိုင်းဆရာတို့က တစ်စ တစ်စ ဝင်လာနေကြပြီ၊ ရောက်လာတဲ့ အရာရှိတိုင်းအား ဆရာတော်က သူ၏ သာသနာပြုပြင်မှုလုပ်ငန်းကို ဖွင့်ပြလေ့ ရှိတတ်သည်။

"အစိုးရ အကူအညီပါမှ ဖြစ်မယ်၊ အစိုးရ အကူအညီပါလျှင် တစ်သာသနာလုံး ပြုပြင်နိုင်မှာပဲ၊ ဘုန်းကြီးကတော့ အစိုးရ အကူအညီပါပြီး ဒါယကာ ဒါယိကာမတွေနဲ့ ပူးပေါင်း၍ အကောင်းဆုံး အခြေအနေသို့ ရောက်အောင် ပြုပြင်နိုင်သည်အထိ မသေသေးဘဲ အသက်ကို အောင့်ထားမယ်"ဟူ၍ပင် တစ်ခါတစ်ခါ ခပ်ရွှန်းရွှန်း မိန့်တတ်သည်။

ဆရာတော်၏ သာသနာပြုပြင်လိုသောဆန္ဒကား ကြာလှပြီဖြစ်၍ ယခုအခါ အာသာ ချင်ခြင်းပင် ဖြစ်၍နေတော့၏၊ ထိုချင်ခြင်းကို အခွင့်သင့်တိုင်း ထုတ်ဖော်၍ ပြောလေရာ အရေးပါသော အရာရှိပိုင်းတို့က "အစီအစဉ် လုပ်ပါဦးမည်ဘုရား, ဆရာတော့်

ဆန္ဒ ပြည့်ဝပါလိမ့်မည်"ဟူ၍ ပဋိညာဉ်စကားပင် ပေးသည့်အဆင့်သို့ ရောက်လေပြီ။

ထိုအခါ ဝမ်းသာလွန်း၍ နံနက်ခင်း ဩဝါဒများ ၌ပင် ထည့်သွင်း၍ မိန့်တော့၏။

"ဘုန်းကြီး ပြင်ချင်နေတဲ့ သာသနာပြုအလုပ် ကတော့ မုချ အကောင်အထည် ပေါ်လာတော့မှာပဲ၊ တရုတ်ကလေးပြောတဲ့ ဟတ္တာလို သုံးပုံနှစ်ပုံကတော့ သေချာနေပြီ။

တရုတ်ကလေးက ပြောတယ်၊ အမျိုးသမီးတစ်ယောက်ကို သူကကြိုက်နေပြီတဲ့၊ ကြားက အောင်သွယ်ပေးမယ့် မိန်းမကြီးကလဲ ပြောပေးမယ်တဲ့၊ ဟိုဘက်က အမျိုးသမီးက ပြန်ကြိုက်ဖို့ တစ်ခုပဲ လိုတော့တယ်၊ ဒီတော့ သူ့ကိစ္စဟာ သုံးပုံနှစ်ပုံကတော့ သေချာပြီလို့ ဆိုတယ်၊ ဘုန်းကြီးလဲ အဲဒီအတိုင်းပဲ သုံးပုံနှစ်ပုံတော့ သေချာနေပြီ"ဟူ၍ပင် ခပ်ရွှင်ရွှင် မိန့်တော်မူတော့၏။

## ပဋ္ဌာန်းတရားတော်ဟောကြားခြင်း

### ဆရာတော်၏ ဟောပြောပုံမှု

များစွာသော ဓမ္မကထိကပုဂ္ဂိုလ်တို့သည် တရားဟောလျှင် ဒါနကထာ သီလကထာ သဂ္ဂကထာ မဂ္ဂကထာ စသည်ဖြင့် ဘုရားရှင်ကိုယ်တော်မြတ် ဟောတော်မူသည့် အစဉ်အတိုင်း ဟောပြောတော်မူလေ့ ရှိတတ်ကြကုန်၏၊ ဒါနသည် သံသရာခရီး သွားတို့အတွက် အားကိုးစရာ အရေးကြီးသောရိက္ခာ သဖွယ် ဖြစ်လေသောကြောင့် ဦးစွာ ပထမ ဒါန အလုပ်ကို လုပ်ကြဖို့ရန် ညွှန်ပြတော်မူခြင်းဖြစ်သည်။

ထို့နောက် ရိက္ခာပြည့်စုံသူမှာ အလိုရှိရာခရီးသို့ အရောက်လှမ်းနိုင်ဖို့ရာ အလိုရှိရာ အလုပ်ကို ပြီးစီးနိုင်ဖို့အတွက် မိမိက ကိုယ်ကျင့်သီလ ပြည့်ဝနေဖို့သည် အရေးကြီးပြန်၏၊ ထို့ကြောင့် ဒုတိယအနေဖြင့် သီလကထာကို ပြတော်မူခြင်း ဖြစ်သည်။

ဤသို့ စသည်ဖြင့် ဟောရိုးဟောစဉ်ရှိသော်လည်း ဆရာတော် အရှင်ဇနကာဘိဝံသကား ထိုသို့ ဟောလေ့ပြောလေ့ မရှိတတ်ပါ၊ ပစ္စုပ္ပန်အခြေအနေ အရ "သာသနာရေး အကြောင်းအရာ"ကို သာ ထပ်ခါတလဲလဲ ဟောလေ့ ရှိတတ်ပါသည်၊ အလွန် မလွှဲသာသောအခါကျမှ ဒါနအကြောင်း နည်းနည်း ပါးပါးကလေး ဟောပြောတတ်ပါ၏။

သီလအကြောင်းကိုကား သာသနာပြုရာတွင် လွန်စွာ အရေးကြီးသော လက်နက်ကောင်းဖြစ်၍ အဓိကထားပြီး ဟောကြားလေ့ရှိတတ်ပါသည်၊ ရှင်ပြု အလှူတွင် ရှင်ပြုအကြောင်းကို အနည်းငယ် ပြောပြ၍လည်းကောင်း, ရဟန်းခံ အလှူတွင် ရဟန်းခံအကြောင်းကို အနည်းငယ် ပြောပြ၍လည်း ကောင်း, ကထိန်အလှူတွင် ကထိန်အကြောင်းကို အနည်းငယ် ပြောပြ၍လည်းကောင်း နောက်ပိုင်းတွင်မူ "သာသနာပြုပြင်ရေးအကြောင်း"သို့ချည်း ရောက်ရောက်သွားတတ်ပါ၏။

ဤသို့ ဟောလေ့ပြောလေ့ရှိသော ဆရာတော်အား တစ်နေ့တွင် ရန်ကုန်မြို့မှ ဆရာတော်နှင့် အလွန်ရင်နှီးသော တပည့်ကြီးဖြစ်သည့် ဒါယကာ ဦးထိန်ဝင်းက "ပဋ္ဌာန်းတရား ဟောကြားပါရန်" တောင်းပန်လျှောက်ထားတော့၏၊ ထိုအခါ ဆရာတော့်ထံမှ အဖြေရသည်ကား..."ပဋ္ဌာန်းဆိုင်ရာ စာအုပ်တွေနဲ့ ပဋ္ဌာန်းတရား ဟောကြားတဲ့ ဓမ္မကထိကတွေက ရှိနေပြီပဲ"ဟူ၍ ဖြစ်သတည်း။

### အဓိပ္ပာယ်ပါသိ၍ နာကြားရပါလျှင်

ဆရာတော်အား အကြောင်းတစ်မျိုးဖြင့် ဇွတ်တိုး၍ လျှောက်ထားပြန်လျှင်လည်း မရိုသေရာကျတော့မည်၊ သို့ဖြစ်၍ ဤကိစ္စကို ဤမျှဖြင့် မျိုသိပ်ခဲ့ရ၏၊ ရက်အတန်ကြာသောအခါ တစ်စုံတစ်ရာသောကိစ္စဖြင့် ဆရာတော့်ထံ ရောက်လာကြပြန်၏၊ ရောက်ခိုက်တွင် လျှောက်လိုက်ဦးမည်ဟု ကြံ၍ နောက်တစ်ဖန် လျှောက်ပြန်သောအခါတွင်လည်း ထူးမခြားနားပင်၊ ဒကာ ထိန်ဝင်းက သူ့ချည်း မတတ်နိုင်၍ "အရပ်ကူပါ၊ လူဝိုင်းပါ"ဆိုသလို နီးစပ်ရာ ဒကာရင်းချာများကို အခွင့်သင့်သောအခါ ခေါ်သွား၍ လျှောက်ထားခိုင်းပြန်သောအခါတွင်လည်း ၎င်းနည်းပင် ဖြစ်နေတော့၏၊ မည်သို့ တတ်နိုင်အံ့နည်း။

အမှန်မှာလည်း ... ဟောစေချင်လွန်း၍သာ လျှောက်နေရသည်၊ ဆရာတော့်မှာ နေ့စဉ်ထာဝရ စာချ စာရေးကိစ္စ၊ ကျောင်းကန်တိုက်တာကိစ္စအပြင် သာသနာရေးကိစ္စတို့ဖြင့် မအားလပ်အောင် ရှိနေသည်ကိုလည်း အသိပင် ဖြစ်၏၊ ထို့ကြောင့် လက်လျှော့နေရပြန်သည်။

ဒကာထိန်ဝင်း ဖြစ်စေချင်သည်မှာ ယခုအခါ နေရာအနှံ့အပြား၌ ပဋ္ဌာန်းတရားတော်များကို အခမ်းအနားဖြင့် အသံမစဲ ရွတ်ဖတ်ပူဇော်ပွဲတွေ ကျင်းပနေကြပြီ၊ သို့ရာတွင် အသံစာတတ်မျှကိုသာ နာကြား၍ ကုသိုလ် သဒ္ဒါတရား ပွားများနေကြရ၏။

ဤအဆင့်မျှပင် သုဂတိဘဝကို ရစေနိုင်သည်၊ တရားထူးရဖို့ ဥပနိဿယ အခြေခံ ဖြစ်စေနိုင်သည် ဆိုသည်ကိုလည်း ယုံကြည်ပါ၏၊ လင်းနို့သားငါးရာ ဝတ္ထု၊ မဏ္ဍုကဖားနတ်သားဝတ္ထု စသည်တို့ကို ထောက်ဆ၍ အားရစရာ ကောင်းလှပါ၏။

သို့ရာတွင် ဤပဋ္ဌာန်းတရားတော်၏ အဓိပ္ပာယ်ကိုပါ သိပြီး (အကုန်လုံးအတိအကျ မဟုတ်စေကာမူ တချို့တစ်ဝက် သဘောမျှလောက်ကိုသိပြီး) နာကြားရပါမူ ပို၍ပင် အားရစရာ၊ ပို၍ပင် ကျေနပ်စရာ မကောင်းပါလော၊ ဤသို့သော အကြောင်းကြောင့်လည်း ပဋ္ဌာန်းတရားတော်ကြီးကို ဟောပြောစေချင်နေခဲ့သည် ဆို၏။

## ပဋ္ဌာန်းပင်လယ်နဲ့ ငါးကြီးသဗ္ဗညု

ထို့အပြင် ဤပဋ္ဌာန်းဒေသနာတော်ကြီးကို အဆုံးအစ မထင်အောင် အလွန်ပင် ကျယ်ပြောလွန်း၍လည်းကောင်း၊ သဘောသဘာဝအဓိပ္ပာယ် အလွန်နက်ရှိုင်းလွန်း၍လည်းကောင်း မဟာသမုဒ္ဒရာ ပင်လယ်ရေပြင်ကြီးနှင့် ပုံနှိုင်းထားပါ၏။

ပဋ္ဌာန်းတတ်ကျွမ်းသော မထေရ်ကြီးတစ်ပါးကမူကား "မဟာသမုဒ္ဒရာဆိုသည်ကမှ အရှေ့ အနောက် တောင် မြောက် စကြဝဠာတံတိုင်း၊ အောက်မှာ မြေပြင်၊ အထက်မှာ ကောင်းကင်ဟူ၍ အပိုင်းအခြား ရှိနိုင်သေးသည်၊ ဤပဋ္ဌာန်းဒေသနာတော်ကြီးကား အပိုင်းအခြား မထင်၊ ထို့ထက်ပင် ကျယ်ဝန်းနက်ရှိုင်းလှပါဘိ"ဟု ဆင်ခြင်ရင်း ရဟန္တာ ဖြစ်သွားသည်ဟု ကြားဖူး၏၊ တစ်ဖန် မြတ်စွာဘုရား၏ သဗ္ဗညုတဉာဏ်တော်ကြီးကိုကား အလွန့်အလွန် ကြီးမားသော ငါးကြီးနှင့် ဥပမာ တင်ထားသည်။

ယူဇနာပေါင်း မြောက်မြားစွာ ရှည်လျားကြီးမားသော ငါးကြီးတို့သည် သာမန် မြစ်ချောင်း အင်းအိုင်ကလေးတို့၌ လှည့်ပတ်ပြေးလွှား မကစားလောက်၍ မပျော်ပိုက်နိုင်ကြ၊ အလွန်ကျယ်ပြန့်သော သမုဒ္ဒရာပင်လယ်ကြီးတို့ အတွင်းရောက်မှ လှည့်ပတ် ပြေးလွှား ကစားဖို့ အခွင့်ရ၍ ပျော်ပိုက်နိုင်ကြသလို သဗ္ဗညုတဉာဏ်တော်ကြီးကလည်း ဤကဲ့သို့သော ပဋ္ဌာန်းဒေသနာတော်ကြီးကျမှ လွန့်လွန့်လူးလူး ကွန့်မြူး ကျက်စားနိုင်ခွင့် ရသည်ဟု ကျမ်းစာတို့ အဆိုအရ ကြည်ညိုရပါသည်။

ဤသို့လျှင် ... ပဋ္ဌာန်းဒေသနာတော်ကြီး၏ ကျယ်ဝန်း နက်ရှိုင်းပုံနှင့် သဗ္ဗညုတဉာဏ်တော်ကြီး၏ မနှိုင်းဆနိုင်ပုံတို့ကို ခန့်မှန်းနိုင်ခွင့်ရလျှင် ပို၍ပင် ကြည်ညိုသဒ္ဓါပွားဖွယ်ရာ ဖြစ်ပါ၏၊ ဤသို့သော အကြောင်းကြောင့်လည်း ဆရာတော့်အား ပဋ္ဌာန်းတရားတော်ကြီးကို ဟောပြောစေချင်နေခဲ့သည် ဆို၏၊ ဤနည်းဤပုံဖြင့် ၁၃၃၁ ခုနှစ်မှ စ၍ လျှောက်ထားခဲ့သော်လည်း အခွင့်မရဘဲ စောင့်ဆိုင်းလာခဲ့ရာ ၁၃၃၄ ခုနှစ် နွေပိုင်းသို့ပင် ရောက်လာခဲ့ပြီ၊ သုံးနှစ်သုံးမိုးပင် ကြာချေပြီ၊ ဤတစ်ကြိမ်လျှောက်လျှင်တော့ ရကောင်းတန်၏ဟု မျှော်လင့်ရပြန်သည်။

## အနိစ္စနဲ့ဒုက္ခ ထင်လွယ်ကြပေမယ့်

၁၃၃၄ ခုနှစ် နွေပိုင်း တန်ခူးလတွင် ဖြစ်၏၊ ဒါယကာထိန်ဝင်းသည် မိုးကုတ်မြို့မှ သိမ်ဒါယကာ ဦးညီညီနှင့် သိမ်ဒါယိကာမ ဒေါ်လှမေတို့၏ သားငယ်များ ရှင်ပြုအလှူပွဲတွက် ရောက်လာခဲ့ပြန်၏၊ အားမလျှော့သေးဘဲ လျှောက်ထားပြန်၏။

"ဆရာတော်ဘုရား၊ ၁၃၁၁ ခုနှစ်တုန်းက ဓမ္မစကြာတရားတော်ကို ဆရာတော် အကျယ်ဟောခဲ့ပါတယ်၊ နောက် ၁၃၁၂ ခုနှစ်မှာ အနတ္တလက္ခဏသုတ်ကို ဟောခဲ့ပြန်ပါတယ်၊ နှစ်မျိုးလုံးကို အသံဖမ်းယူထားပါတယ်ဘုရား။

နာကြားရသူအပေါင်း တို့လဲ ကျေးဇူးများလှပါတယ်ဘုရား၊ အဲဒီ နှစ်မျိုးထဲက အနတ္တကို ပိုပြီး လူပြော များကြပါတယ်၊ များသောအားဖြင့် သူသူငါငါ အနိစ္စနဲ့ ဒုက္ခကို ထင်လွယ် မြင်လွယ် သိလွယ်ပေမယ့် အနတ္တကျတော့ သဘောမပေါက်နိုင်ဘဲ ဖြစ်ဖြစ်နေတတ်ပါတယ်ဘုရား၊ ဆရာတော်ဟောပြတဲ့ အနတ္တလက္ခဏသုတ်"အနတ္တအကြောင်းအရာ"တရားတော်ကတော့ ကွက်ကွက်ကွင်းကွင်း မြင်စေပါသတဲ့ဘုရား။

ဒါ့ကြောင့် အဲဒီ နည်းတူ ယခုခေတ်မှာ ပဋ္ဌာန်းအကြောင်းကို စိတ်ဝင်စားနေကြတဲ့သူတွေအတွက် ပဋ္ဌာန်းကိုလဲ ဟောပါဦးဘုရား"။

## ကြိမ်ဖန်များစွာ လျှောက်သောအခါမှ

ထိုအခါ ဆရာတော့်ထံမှ အဖြေရပြန်၏၊ ထိုအဖြေမှာ "ဒကာထိန်ဝင်းနှယ် ရာသီဥတုက ပူကပူပြင်းပါဘိသနဲ့"ဟူ၍ ဖြစ်သတည်း၊ ဒကာထိန်ဝင်းမှာ ခဲလေသမျှ သဲရေကျမို့ အောင့်သက်သက်ဖြစ်သွားရတော့သည် ဆို၏၊ သို့နှင့် ဒကာထိန်ဝင်းက "အရှင်ဘုရား...ဒါလောက်တောင်ဆိုရင် တပည့်တော်လဲ ဒီကျောင်းတိုက်ကို မလာတော့ဘူးဘုရား" ဟူ၍ ကလေးကြီးလို နွဲ့ဆိုး ဆိုးလိုက်တော့သည် ဟူသတတ်။

ထိုအခါကျမှ ဆရာတော်က ပြုံးလာပြီးလျှင်... "ကဲကဲ-ဒကာထိန်ဝင်းက သည်လောက်တောင်မှ ဟောစေချင်ရင်လဲ ဟောတာပေါ့၊ ဒါပေမယ့် ပဋ္ဌာန်းတရားတော်ကြီးဆိုတာ အလွန်လေးနက် ခဲ့ညားတယ်, မြင့်မြတ်တယ်, နက်ရှိုင်းတယ်, တိကျတယ်၊ လွယ်လွယ် ဖြစ်ကတတ်ဆန်း ဟောလို့ မတော်ဘူး၊ နှစ်ရက်လောက် အစီအစဉ်လုပ်ဦးမယ်၊ ပြီးတော့မှ ဟောမယ်"ဟူ၍ ပဋိညာဉ်ပေးတော့သည်။

ထိုအခါမှပင် ဒကာထိန်ဝင်းလည်း ပြုံးလာနိုင်တော့၏၊ ဒကာထိန်ဝင်းဆိုသူမှာ ဆရာတော့်အား အလွန် ကျေးဇူးများသည်၊ နှစ်ပေါင်း သုံးဆယ်ခန့်နီးပါး ဆရာတော်၏ သာသနာပြုလုပ်ငန်းကို ကူညီဆောင်ရွက်လာခဲ့သူ ဖြစ်၏၊ သို့ဖြစ်၍သာ ဆရာတော်က သူ၏ ဆန္ဒကို လိုက်လျောတော်မူခြင်း ဖြစ်ပါလိမ့်မည်။

## ပဋ္ဌာန်းတရားတော်ကို စိတ်ဝင်စားသူများ

အညာဒေသ၏ နွေရာသီဥတုမှာ ပူပြင်းလှပါ၏၊ နေထွက်လာလျှင်ပင် စပ်ဖျင်းဖျင်း ပူလောင်စေပါသည်၊ ချွေးတလုံးလုံးနှင့် အနေရခက်အောင်လည်း ပြုလုပ်တတ်ပါ၏၊ ထို့ကြောင့် ဆရာတော်က ပဋ္ဌာန်းတရားဟောဖို့ အချိန်ကို နံနက်စောစော ဩဝါဒပေးချိန်မှာပင် သတ်မှတ်လိုက်ပါသည်။

မဟာဂန္ဓာရုံကျောင်းတိုက်၏ ထုံးစံအရ အရုဏ်တက်လျှင် သံချောင်းခေါက်၍ ဆွမ်းစားကျောင်းကြီးအောက်ထပ်မှာ သံဃာတော် ငါးရာလုံးစုရုံး၍ ဆွမ်းဘုဉ်းပေးကြရ၏၊ ပြီးလျှင် အထက်ထပ်မှာ အားလုံးစုရုံးကာ ဆရာတော်ကြီး အရှင်ဇနကာဘိဝံသ၏ ဩဝါဒကို နေ့စဉ် ခံယူရစမြဲ ဖြစ်ပါသည်။

ဆွမ်းစားကျောင်းကြီးမှာလည်း ရှည်ရှည်လျားလျား အစိုးရ၏ အထက်တန်းကျောင်းကြီးအလားကြီးမား၏၊ နှစ်ထပ်ဖြစ်ပြီးလျှင် ခန်းမကြီးမှာလည်း ကျယ်ဝန်းလှပါသည်၊ ထိုကျောင်းကြီး အထက်ထပ်တွင် ပဋ္ဌာန်းတရားတော်ကို ဟောဖို့ သတ်မှတ်ပါတော့သည်၊ ၁၃၃၄ ခု တန်ခူးလဆန်း ၈ ရက် (၉-၄-၇၃)နေ့ တွင် စတင်၍ ပဋ္ဌာန်းတရားတော်ကို ဟောတော်မူပါသည်၊ ပဋ္ဌာန်းတရားတော်ကို မြတ်စွာဘုရားမှစ၍ ဟောတော်မူစဉ်က နာကြားသော ပရိသတ်မှာ စကြဝဠာတိုက် တစ်သောင်းမှ နတ်ဗြဟ္မာများ ဖြစ်၏၊ ယခုအခါတွင်ကား သံဃာတော်ငါးရာကျော်နှင့် လူပုဂ္ဂိုလ် ဒါယကာ ဒါယိကာမများ အချို့တို့သာ ဖြစ်ကြသည်၊ နေ့စဉ်နေ့တိုင်း ဤပရိသတ်များ ရှိကြပါ သည်၊ ဤကဲ့သို့ "ဆရာတော်ဘုရားကြီးက ပဋ္ဌာန်း တရားဟောကြားပေးသည်" ဆိုသောအခါ လူတို့သည် တက်တက်ကြွကြွ ဖြစ်လာကြပြီးလျှင် အမရပူရမြို့နှင့်တကွ မန္တလေး စသည်တို့ကပါ ကားကြီးကားငယ်တို့ဖြင့် နံနက်စောစော အမီ လာ၍ တရားနာကြကုန်၏၊ ဤနည်းဖြင့် တဖြည်းဖြည်း ပရိသတ်ပို၍ များလာကြပါသည်။

## အဘိဓမ္မာသဘော သုတ္တန်နှင့်နှော၍

ဆရာတော်၏ ဟောပုံ ဟောဟန်ကလည်း တစ်မျိုး ဖြစ်သည်၊ အများက ထင်ကြသည်မှာ... "အဘိဓမ္မာဆိုလျှင် ပျင်းစရာကြီး နေမှာပဲ" ဟု အောက်မေ့ကြ၏၊ ယခု ထိုသို့ မဟုတ်ချေ၊ ပျင်းရိငြီးငွေ့ဖွယ် မဟုတ်အောင် ဖန်တီး၍ ဟောပြနေပါသည်၊ ဆရာတော်က အမိန့်ရှိပါ၏။

"နတ်ပြည်မှာ မြတ်စွာဘုရား အဘိဓမ္မာတရားတွေ ဟောတုန်းက အဘိဓမ္မာ တရားသားချည်း ဟောတော့ နာလို့သာ ကောင်းတာ, တရားမရကြပါဘူးတဲ့၊ ကြားထဲမှာ သုတ္တန်အကြောင်းအရာတွေ ညှပ်ညှပ်ပြီး ဟောတော့မှ သဘောပေါက်ကုန်ပြီး တရားရကြတာပါ၊ အဲဒါကို ဘုန်းကြီးက အတုယူပြီး ယခုလဲ အဘိဓမ္မာသဘောကို သုတ္တန်နှင့်နှော၍ ဟောနေပါတယ်"တဲ့၊ "အဘိဓမ္မာသဘောတရားချည်း ဟောကြားနေလျှင် ဒီပရိသတ် စိတ်ဝင်စားမှာ မဟုတ်ဘူး၊ ငိုက်ကုန်မယ်"တဲ့။

ဤသို့ လေးနက်သော သဘောတရားတွေကို စိတ်ဝင်စားဖွယ်ဖြစ်အောင် ပါဠိတော် အဋ္ဌကထာလာ ငါးရာ့ငါးဆယ် ဇာတ်တော်လာတို့အပြင် ရာဇဝင် မဟာဝင် ပုံပြင်တို့ဖြင့် မွမ်းမံ၍ တန်ဆာဆင်ပေးသော အလုပ်မှာ ဆရာတော့်အဖို့ မဆန်းတော့ပြီ၊ ရှေးကလည်း ဤသဘောမျိုး ရှိခဲ့ဖူးပါသည်။



ပဋ္ဌာန်းတရားတော် ဟောကြားတော်မူနေစဉ်

## လူနှင့်အဘိဓမ္မာ နီးစပ်အောင်

ဆရာတော်က ရဟန်းသံဃာတော်များအတွက် အဘိဓမ္မာဆိုင်ရာ အခြေပြုသင်္ဂြိုဟ်, ထို့ထက် အကျယ်အဖွင့် ဋီကာအဖြစ် သင်္ဂြိုဟ်ဘာသာဋီကာ, ထို့နောက် ဝီထိနှင့်သုံးချက်စုဘာသာဋီကာတို့ကို ရေးပေးရာတွင် လူတို့ကပါ လိုက်၍ ဖတ်နေကြသတတ်၊ သို့သော် နားမလည်နိုင်ကြပါဟု ဆိုသည်။

ထို့ကြောင့် ဆရာတော်က လူတို့ နားလည်လောက်ရုံ လူတို့နှင့် လိုက်လျောအောင် အဘိဓမ္မာသဘောကို သုတ္တန်နှင့်နှော၍ **ကိုယ်ကျင့်အဘိဓမ္မာ** ဟူသော ကျမ်းစာတစ်စောင် ရေးသားပေးခဲ့ရဖူးသည်၊ ဤနည်းအတိုင်းပင် ယခုအခါတွင်လည်း ... အဘိဓမ္မာကို လူတို့နှင့် နီးစပ်အောင်, လူကြားထဲ ရောက်အောင်, ကိုယ်ကျင့်အဖြစ် ကျင့်၍ဖြစ်အောင် သုတ္တန်တို့ဖြင့် မွမ်းမံကာ ဟောပြတော်မူပါသည်။

## အဘိဓမ္မာမြို့တော် ဖြစ်ခဲ့ဖူးခြင်း

ဗုဒ္ဓအဘိဓမ္မာနှင့်ပတ်သက်လာလျှင် မြန်မာပြည်သည် ရှေးတုန်းကပင် နာမည်ကြီးခဲ့ရ၏၊ ထေရဝါဒဗုဒ္ဓသာသနာထွန်းကားသော ထိုင်း(ယိုးဒယား), သီရိလင်္ကာ (သီဟိုဠ်)စသော နိုင်ငံတို့မှပင် မြန်မာပြည်သို့လာ၍ သင်ယူကြရသော အစဉ်အလာရှိခဲ့သည်၊ မြန်မာပြည်မှ မြန်မာဆရာတော်ဘုရားကြီးတို့သည် အဘိဓမ္မာဘက်၌ အတော်များများ စိတ်အားထက်သန်တော်မူတတ်ကြ၏။

ထို့ကြောင့်ပင် အဘိဓမ္မာ ဋီကာ အကောက်များကို ဖန်တီးတော်မူနိုင်ခဲ့ကြသည်၊ ဆရာတော်ဘုရားကြီးတို့သည် မိမိတို့ သိသလို လူပုဂ္ဂိုလ်တို့အားလည်း သိစေလိုကြ၍ ပုံစံအမျိုးမျိုးဖြင့် ကြိုးစားခဲ့ကြ၏၊ ထို့ကြောင့် အဘိဓမ္မာနှင့် မြန်မာပြည်သားတို့မှာ ရှေးကပင် ရင်းနှီးပြီးသား ဖြစ်ကြပါသည်။

အထူးအားဖြင့် အဘိဓမ္မာဆိုလျှင် အမရပူရ (တောင်မြို့)က နာမည်အကြီးဆုံး ဖြစ်ခဲ့၏၊ တစ်ချိန်တုန်းက တောင်မြို့တစ်ခုလုံး အဘိဓမ္မာပညာတော်သင် ရဟန်းတို့ဖြင့် ဖုံးလွှမ်းခဲ့ဖူးသည်၊ ထို့ကြောင့်လည်း "အဘိဓမ္မာမြို့တော်"ဟု ခေါ်ဝေါ်ခံရဖူးခြင်းဖြစ်သည်၊ သို့သော် ထိုစဉ်က သင်ယူကြရသော အဘိဓမ္မာများမှာ (သုတ္တန်မဖက်) အဘိဓမ္မာတရားသားချည်း သက်သက် ဖြစ်ကြပါ၏။

## ဟောပုံ ပြောပုံ ဆန်းကြယ်လှ

ယခုအခါတွင်ကား ဆရာတော် အရှင်ဇနကာဘိဝံသက လူပုဂ္ဂိုလ် ဒါယကာ ဒါယိကာမအများစုအတွက် ရည်သွန်းသော အဘိဓမ္မာဖြစ်၍ ပျင်းဖွယ်မရှိအောင် သုတ္တန် ဝတ္ထု ဇာတ်ကြောင်းတို့ဖြင့် ပုံဆောင်လျက် မွမ်းမံဟောပြထားပါသည်၊ ထို့ကြောင့် ဟောပြောပုံ ဆန်းကြယ်သည်ဟု ဆိုရမည်သာ ဖြစ်၏။

ထို့ပြင် ပဋ္ဌာန်းတရားတော်ဆိုသော်လည်း ပဋ္ဌာန်းပါဠိတော်ကြီးတစ်ခုလုံးကို တောက်လျှောက် ဟောပြထားသည် မဟုတ်ပါ၊ ပဋ္ဌာန်းဒေသနာတော်ကြီး၏ အခြေခံ ပဋ္ဌာန်းပစ္စယုဒ္ဒေသနှင့် ပစ္စယနိဒ္ဒေသကို မူထား၍ ပဋ္ဌာန်းတရားတော်ကြီး တစ်ခုလုံး၏ သဘောသွား အဓိပ္ပာယ်များကို ယူပြီးလျှင် ... ဇာတ်လမ်း ပုံပြင်တို့ဖြင့် ထင်လွယ် မြင်လွယ်အောင် ပုံဆောင်ဟောပြခြင်းသာ ဖြစ်ပါသည်။

ထို့ကြောင့် ဆရာတော်၏ ပဋ္ဌာန်းတရားတော်ကို နာရသည်မှာ ဘုရားတန်ဆောင်း အာရုံခံ နတ်လမ်းတို့၌ ရှိတတ်သော ပန်းချီကားချပ်, ရုပ်ကြွရုပ်လုံးတို့ဖြင့် ဖော်ပြထားသော ဇာတ်လမ်းတို့ကို ကြည့်ရသလို ဖြစ်တော့သည်။

ထင်းခနဲ ကွင်းခနဲ မြင်စေ၏၊ ဇာတ်အိမ်တစ်ခုလုံးကို ငုံ၍ သိစေသည်၊ ထို့ကြောင့်လည်း သိလွယ်သော တရားဖြစ်၍ ပရိသတ်က ကျေနပ်ကြခြင်း ဖြစ်ပေသည်။

## လက်အုပ်ကလေး ချီကာချီကာဖြင့်

ထို့ပြင်လည်း ဤအဘိဓမ္မာတရားတော်ကြီးမှာ ဆွဲ၍ ဆန့်တိုင်း မဆုံးနိုင်အောင် အဓိပ္ပာယ်တွေ ကျယ်ဝန်းလှသောကြောင့် လူသာမန်တို့ ဉာဏ်ဖြင့် ဟောပြခြင်းငှာ မစွမ်းနိုင်ပါ၊ သဗ္ဗညုတဉာဏ်တော်ကြီး၏ အရာမှိုသာ စွမ်းနိုင်ခြင်း ဖြစ်ပေသည်ဆိုသည်ကို ဟောရင်း ဟောရင်း သဘောပေါက်လေ ကြည်ညိုလေ ဖြစ်ရတော့သည်၊ ထို့ကြောင့်လည်း ကြည်ညိုလွန်းလှသဖြင့် လက်အုပ်ကလေး ချီကာချီကာဖြင့် ပဋ္ဌာန်းပစ္စည်းတစ်ပါး ဆုံးတိုင်း ဆုံးတိုင်း "နာနာပ္ပကာရပဋ္ဌာနာနိ, ဗောဓိတာနေတ္တမုနိနာ"စသည်ဖြင့် ရှိခိုး၍ ရှိခိုး၍ သွားပါသည်။

**အဓိပ္ပာယ်မှာ** "အင်မတန် အင်မတန် ကောင်းလွန်းကြ၍ လူ့ဘဝကြီးကို ရပြီးလျှင် ဤကဲ့သို့သော ပဋ္ဌာန်းတရားတော်ကြီးနှင့် တွေ့ကြရသည်၊ တွေ့ကြ ကြုံကြတုန်းမှာ တစ်သက်တစ်ခါ, ကြုံခဲစွာမို့, ကြုံလာသည့်ခိုက်, ဦးဖြင့်တိုက်၍, နှစ်ခြိုက်လှစွာ, ရှိခိုးပါ၏"ဟု ဆိုလိုပါသတည်း။

## မိန်းမတွေ ရှိလို့သာ လောကကြီး စိုပြည်

မဟောခင်တုန်းက အတန်တန် လျှောက်ထားခဲ့ကြရသော်လည်း တကယ်ဟောသောအခါ ဆရာတော်၏ ပဋ္ဌာန်းတရားမှာ "ခြိမ့်ခြိမ့်အုန်းအုန်းနှင့် သည်းထန်သော မိုးကြီးရွာချသလို" အားရစရာ, လိုက်နာချင်စရာ, ကျင့်သုံးစရာတို့ဖြင့် အပြည့်ဖြစ်၍ ကြားနာရတဲ့သူတိုင်းပင် အလွန်ကျေနပ်ဖွယ် ဖြစ်ကြရပါသည်၊ ဥပမာအားဖြင့် ဣန္ဒြိယပစ္စည်းကို ဟောပြရာတွင် အမျိုးသမီးများ အားတက်စရာကြီး ဖြစ်ပါ၏။

"အမျိုးသမီးများ အားမငယ်ကြနဲ့, သတ္တိရှိကြစမ်းပါ ကိုယ့်ကိုယ်ကို သူတော်ကောင်းဖြစ်အောင် သီလလုံကြစမ်းပါ၊ အမျိုးသမီးပေမယ့် ကြိုးစားရင် (ယောက်ျားတွေလိုပဲ) တရားထူး ရနိုင်တာပဲ" စသည်ဖြင့် ရွှေဟင်္သာမင်းဇာတ်မှာ ဘုရားလောင်းပြောခဲ့ပုံတွေကို ထုတ်ဆောင်ဟောပြထားပါသည်။

"တစ်ခါတလေ မိန်းမတွေ မကောင်းကြောင်းကို မြတ်စွာဘုရားဟောရတာက သူ့အကြောင်းနဲ့သူပါ၊ ရဟန်းတွေ တရားရဖို့အတွက် အပြစ်ကို ပြရတာပါ၊ မိန်းမတွေက ထူးပြီး ဆိုးသွမ်းလွန်းလို့ ဟောရတာ မဟုတ်ပါဘူး၊ တကယ်တော့ မိန်းမတွေ ရှိနေလို့သာ ဒီလောကကြီး စိုပြည်နေရတာပဲ" စသည်ဖြင့်လည်းကောင်း, တစ်ဖန် မိန်းမဘဝက ယောက်ျားဘဝ ဖြစ်ချင်ရင်လည်း နည်းလမ်းတွေ အများကြီးရှိတာပဲ၊ ဖြစ်နိုင်တဲ့ နည်းလမ်းတွေ ကျင့်ရင် ဖြစ်နိုင်လာတာပဲ" စသည်ဖြင့်လည်းကောင်း အားတက်စရာတွေ ဟောပြထားချက်များပါ ပါ၏။

ကမ္မပစ္စည်းနှင့် ဝိပါကပစ္စည်းများမှာလည်း ရှုစားမင်းသမီးတို့ သားအဖအကြောင်းကို စိတ်ဝင်စားဖွယ်တွေ ကြားရမည် ဖြစ်ပါ၏၊ မဂ္ဂပစ္စည်းကိုကား အတော်များများ ကျယ်ကျယ်ပြန့်ပြန့် ခင်းပြီးလျှင် ခန္ဓာကိုယ်အတွင်း၌ အတ္တ ဇီဝ အသက် လိပ်ပြာ မရှိပုံကို စုံစုံလင်လင် ဟောပြထားပါသည်။

## သြော် ပဋ္ဌာန်းဆိုတာ ဒီလိုကိုး

အားလုံး ခြုံလိုက်သောအခါ ဆရာတော်၏ ပဋ္ဌာန်းဒေသနာသည် လူကြားထဲသို့ ရောက်လာ၏၊ လူတွေထဲသို့ ရောက်အောင် ပို့ပေးလိုက်ခြင်း ဖြစ်သည်၊ လူတွေ ကျင့်သုံးစရာ ကိုယ်ကျင့်ဖြစ်အောင် ဟောပြလိုက်ခြင်း ဖြစ်သည်၊ ရှေးတုန်းက ကြားဖူးသည်မှာ "ပဋ္ဌာန်း"ဆိုလျှင် အိပ်ချင်သွား၏၊ ပျင်းရိငြီးငွေ့ဖွယ် ကောင်းသည်ဟု ဆိုကြသည်။

ယခုကား စိမ်းစိုရွှန်းမြ၍ ပင်စည်ကိုယ်လုံး ကိုင်းတက်ရွက်ဖား, အသီးအပွင့် အငုံအခိုင်တို့ဖြင့် စုံမြိုင်နေသော ဥယျာဉ်ကြီးထဲသို့ ရောက်သွားရသည့်ပမာဖြစ်၏၊ နာကြားရသူအပေါင်း လန်းဆန်းလျက်, ရွှင်မြူးလျက်, အားတက်လျက် ဖြစ်ကြရသည်၊ **"သူတော်ကောင်းဖြစ်အောင် ကြိုးစားမယ်"**ဟူသော စိတ်ဓာတ်များ ကိန်းအောင်းလာအောင် လှုံ့ဆော်ပေးနေသလိုလည်း ဖြစ်တော့သည်။

ဤသို့အားဖြင့် တစ်နေ့ပြီးတစ်နေ့ တရွေ့ရွေ့ နေ့စဉ် နံနက်တိုင်း မိုးသောက်ရောင်ခြည်စအချိန်မှ နေထွက်ပြူစတိုင်အောင်" တစ်နာရီခန့်စီမျှ ဟောပြ၍ လာခဲ့ရာ ၁၇ ရက်ကြာသောအခါ ပဋ္ဌာန်းအခြေခံ တရားတော်ကြီး ပြီးစီးအောင်မြင်သွားတော့သတည်း၊ [ဟောသမျှကို အသံဖမ်းကြိုးခွေဖြင့် ဖမ်းယူထားရာ စီ ၆၀ တိပ်ခွေဖြင့် ၁၉ ခွေ ဖြစ်တော့သည်။]

အရှင်ဇနကာဘိဝံသ ဆရာတော်ကြီး ပဋ္ဌာန်းတရားဟောကြားသည်ကို စစ်ကိုင်းတောင်ရိုး ပဋ္ဌာန်းသိပ္ပံကျောင်းတိုက်မှ အဂ္ဂမဟာပဏ္ဍိတ ပဋ္ဌာန်းဆရာတော်ကြီး အရှင်ဣန္ဒကမထေရ်က ကြားသိ၍ အသံဖမ်း ပဋ္ဌာန်းခွေတို့ကို တောင်းယူနာကြားပါသတတ်။

ထိုသို့ နာကြားပြီးလျှင် ရှင်ရဟန်း တပည့် ရာပေါင်း ထောင်ပေါင်းများစွာတို့ကို ပဋ္ဌာန်း အကြိမ်ပေါင်း, အခေါက်ပေါင်း တစ်ရာကျော်တိုင်အောင် ပို့ချ ပြီးစီးခဲ့သော ထိုဆရာတော်ကြီးက ဤသို့ မှတ်ချက်ချပါသတတ်။

**"သြော် ပဋ္ဌာန်းဆိုတာ ဒီလိုကိုး,** တို့ ပို့ချနေတဲ့ ပဋ္ဌာန်းက ပါဠိတော်တွေကို ဟောနိုင်အောင်, အကောက်တွေကို ကောက်နိုင်အောင်, အဓိပ္ပာယ်တွေ သိနိုင်အောင်နဲ့ စာမေးပွဲတွေ ဖြေနိုင်အောင်လို့သာ စွမ်းနိုင်တာ၊ သူ့ပဋ္ဌာန်းက လူတွေနဲ့ နီးစပ်ပြီး, လူတွေထဲရောက်ပြီး နှလုံးသားခိုက်အောင် ကိုယ်တွင်း ရောက်အောင် ဖောက်နိုင်တာပဲ"ဟူ၍ မိန့်ကာ ချီးကျူးပါသတတ်။

## အခြေပြုပဋ္ဌာန်းတရားတော်




ဤသို့လျှင် ဆရာတော်ဘုရား ဟောကြားတော်မူခဲ့သော ပဋ္ဌာန်းတရားတော်ကြီးမှာ ရက်အားဖြင့် ၁၇ ရက်တိုင်တိုင်, နာရီအားဖြင့် ၁၉ နာရီ, ကက်ဆက်ခွေအားဖြင့် ၁၉ ခွေ ရှိခဲ့ပါသည်၊ ထိုမျှ ရှည်လျားသော တရားတော်ကြီးကို သန့်သန့်ရှင်းရှင်း ရရှိအောင် အသံဖမ်းစက်ဖြင့် ဖမ်းယူနိုင်ခဲ့သည်မှာ အငြိမ်းစား ဒုဗိုလ်မှူးကြီး အောင်သိမ်း (ရေ)နှင့် ဒကာထိန်ဝင်းတို့၏ လှုလအားထုတ်မှုကြောင့်ပင် ဖြစ်သည်။

တစ်ဖန် ဤမျှ ရှည်လျားသော တရားတော်များကို တစ်နှစ်တိုင်တိုင် အစအဆုံး အချိန်ယူ၍ စာရွက်ပေါ်သို့ ရောက်အောင် ကူးယူပေးခဲ့သူမှာ (ယခုအခါ မဟာဂန္ဓာရုံကျောင်းတိုက်တွင် ကပ္ပိယကာရက တစ်ဦးအဖြစ် ဆောင်ရွက်နေသူ) ဗိသုကာ ဦးကြည်တွဲပင် ဖြစ်ပါသည်၊ ထို့နောက်တစ်ဖန် ဦးကြည်တွဲ ကူးယူထားပြီး စာမူကြမ်းများကို စာအုပ်ဖြစ်မြောက်အောင် အထူး ကြပ်မတ်ဆောင်ရွက်ပေးခဲ့သူမှာ အငြိမ်းစား နိုင်ငံတော်ကောင်စီဝင် ဆရာဦးလှမောင်နှင့် ကမ္ဘာအေး သာသနာရေးဦးစီးဌာနမှ စိတ်ဝင်စားကြသူများဖြစ်၍ အထူးကျေးဇူးတင်ထိုက်သူများ ဖြစ်ကြပါသည်။

ယခုအခါတွင်ကား အခြေပြုပဋ္ဌာန်းတရားတော်ဟူ၍ အမည်တွင်ကာ စာအုပ်အဖြစ်သို့ ရောက်ရှိနေပါပြီ၊ ဤစာအုပ်ကြီး၏ ထူးခြားချက်မှာ ယခင်ယခင်က စာအုပ်များကဲ့သို့ ရေးသားဟန်မျိုးမဟုတ်ဘဲ ဆရာတော်၏ မူရင်း ဟောဟန် ပြောဟန် လေသံအတိုင်း ဖတ်ရှုကြရပါမည်။ [ဓမ္မစကြာနှင့် အနတ္တလက္ခဏသုတ်တို့လည်း ထိုအတူပင် စာအုပ်အဖြစ်သို့ ရောက်ရှိနေကြပါပြီ။] ပဋ္ဌာန်းတရားတော်ကို **နာကြားနိုင်ကြပါစေ, ရွတ်ဖတ်နိုင်ကြပါစေ, လေ့လာမှတ်သားနိုင်ကြပါစေ။**

**၁။ ပဋ္ဌာန်းတရား, နာကြားလေးမြတ်, လူနတ်ဗြဟ္မာ, သတ္တဝါ ကျန်းမာကြပါစေ။**

**၂။ ပဋ္ဌာန်းဒေသနာ, ရွတ်သောခါတွင်, အနာမျိုးကင်း, မိုးမင်းသည်းထန်, နိုင်ငံခပ်သိမ်း, တရားထိန်း, အေးငြိမ်းကြပါစေ။**

## တိုက်တာဆူပူမှုတစ်ရပ်
### ငါးခုံးမတစ်ကောင်ကြောင့် တစ်လေ့လုံးပုပ်

၁၃၃၅ ခုနှစ် ဝါတွင်းသည် သံယာ ၅၅၀ ကျော် လာသည့်အလျောက် တိုက်တာတွင်း၌ လှုပ်လှုပ်ရွရွနှင့်လည်း ကြုံလိုက်ကြရ၏၊ ပရိသတ်များလာလျှင် စိတ်ဓာတ်အမျိုးမျိုး စရိုက်အထွေထွေကြောင့် ဤကဲ့သို့ ဖြစ်လာရတတ်သည်မှာ ဓမ္မတာလိုပင်ဖြစ်၏၊ တော်သလင်းလပြည့်ကျော် ၉ ရက်နေ့ ည ၇ နာရီခွဲအချိန် ကဖြစ်၏၊ ဘုရားဝတ်တက်အပြီးတွင် ညမှောင်မှောင်၌ စီစဉ်ညွှန်ကြားပေးသူ ဒါရိုက်တာရှိပါလိမ့်မည်၊ "ဝိုင်းဟ,ချဟ,ပေါက်ဟ,ထုတ်ပစ်ဟ"ဟူ၍ စူစူဝါးဝါး ငှက်ဆိုးထိုးသံလိုအသံများ ကျောင်းတိုက်တွင်း၌ ဆူပွက်ညံစီသွားကြတော့၏၊ သံပုံးတီးသူကတီး၍ အုတ်ခဲကျိုးများဖြင့် သူတို့ အညိုးထားသော ပုဂ္ဂိုလ်ရှိရာကျောင်းကို လှမ်း၍ပေါက်သူကပေါက်ကြ၏၊ အပါး ၁၀၀ ခန့်လောက် ရှိမည်ဟု ဆိုကြသည်။

ထိုအခါ ဆရာတော်က သူ့ကျောင်းကလေးမှ ထွက်လာ၍ "ဘာဖြစ်ကြတာလဲ, ဘာအကြောင်းလဲ" ဟု မေးသောအခါတွင် "သံဃာကြီးများကို မေးပါဘုရား"ဟု လျှောက်ကြားကာ မှောင်ထဲတွင် အရှိုရှို ပျောက်သွားကုန်ကြသည်ဟူ၏၊ [သံဃာကြီးများဟူသည် ဆရာတော့်အောက်က နာယကဘုန်းကြီးများကို ဆိုလို၏။]

အကြောင်းရင်းကို စစ်ကြောမေးမြန်းသောအခါ ရဟန်းငယ် နှစ်ပါးသည် ကျောင်းတိုက်ထဲမှာ ဆောက်လုပ်နေသော ပန်းရံအဖွဲ့မှ ပန်းရံမကလေး တစ်ဦးနှင့် ရင်းနှီးကျွမ်းဝင်နေကြသည် ဆို၏၊ နေ့စဉ်နေ့တိုင်းလိုပင် အခွင့်အလမ်းသာ သာသလို ပန်းရံမလေး အနားသွား၍ ရစ်ကြသည် ဆို၏၊ ဤအခြေအနေကို ပတ်ဝန်းကျင် သံဃာများက မကျေနပ်ကြ၊ အလွန်သန့်နေသော သံဃာ့ပရိသတ်တွင် (ဆွမ်းဆန်ထဲ ကြွက်ချေးရောသလို တစ်တုံးနှစ်တုံးမျှပင် အရောမခံနိုင်) မသန့်သူ တစ်ဦးတစ်ယောက်မျှပင် ပါဝင်လာသည်ကို မနှစ်မြို့နိုင်ကြပေ၊ ထို့ကြောင့် သံဃာကြီးများ (ဆရာတော့်အောက်က နာယကဘုန်းကြီးများ)အား လျှောက်ထားကြ၏၊ သံဃာကြီးများက ဟုတ်/မဟုတ် စစ်ဆေးဦးမည်၊ ဟုတ်လျှင် ဟုတ်သလို အရေးယူမည်၊ မဟုတ်ဘဲနဲ့ အရေးယူခံရလျှင်လည်း သူ့အဖို့ နစ်နာနေမည်"ဟု စုံစမ်းနေဆဲတွင် ကြာသည်ဟု ထင်ကြဟန်တူ၏၊ ဆရာတော်ကြီး သိလွယ်အောင်ဟု ယူဆကာ ဆူပူမှုတစ်ရပ် အဖြစ်သို့ ဖန်တီးပေးလိုက်ကြကြောင်း သိရသည်။

## သံခွာချောင်လို့ စစ်ပွဲကြီးရှုံး

ဆရာတော်လည်း စိတ်မချမ်းမသာ ဖြစ်ရ၏၊ နေ့စဉ်နေ့တိုင်း ဩဝါဒပေးနေသည့်ကြားမှ ဖောက်ပြားသော့သူမျိုးကို တွေ့လာရသဖြင့် "ကိုယ့်အပြစ်ကိုယ်သိပ်ါ, ကိုယ့်အပြစ်နှင့်လျော်အောင် ကိုယ့်ဘာသာကိုယ် စီရင်ပါ"ဟု မိန့်ရတော့၏၊ နောက်တစ်နေ့ နံနက်ခင်း ဩဝါဒတွင်လည်း ခပ်ပြင်းပြင်း ခပ်တင်းတင်း မိန့်ကြားနေတော့သည်၊ မမိန့်ကြားချင်၍ မဖြစ်ပေ၊ ခေါင်းဆောင်တို့၏ တာဝန်တစ်ရပ်သာ ဖြစ်၏။

"ရှေးတုန်းက မြင်းတစ်စီး သံခွာတစ်ဖက်ချောင်လို့ စစ်ပွဲကြီးတစ်ပွဲလုံး မရှုမလှ ရှုံးခဲ့ရဖူးတယ်ဆိုတဲ့ ဖြစ်ရပ်တစ်ခု ရှိတယ်၊ ဆိုလိုတာက ရှေးတုန်းက အခုခေတ်လို ကြေးနန်းတွေ ဝါယာလက်တွေ မရှိတော့ တစ်ဖက်နှင့် တစ်ဖက် စစ်သတင်းကို မြင်းနဲ့ ပို့ကြရတယ်၊ အဲဒီ ဆက်သားမြင်းသမားဟာ သူစီးတဲ့ မြင်းက သံခွာတစ်ဖက် ချောင်နေတာကို မပြင်မိဘူး, အချိန်ဆွဲပြီး ခပ်ပေါ့ပေါ့နေမိတယ်၊ ဒီလိုနဲ့ တစ်နေ့မှာ အရေးတကြီး စစ်သတင်းပို့ဖို့ မြင်းနဲ့အသွား သံခွာ တစ်ဖက်ချောင်နေလို့ သွားရတာ ခရီးမတွင်ဘူး၊ တစ်ဖက် စစ်တပ်ရန်သူတွေက အရှိန်ပြင်းစွာနဲ့ ချီတက်လာနေပြီ၊ ဒီသတင်းကို ပို့ဖို့သွားပေမယ့် ခရီးမတွင်နိုင်ဘဲ အနည်းငယ်နောက်ကျသွားတော့တယ်၊ အဲဒီ ချွတ်ယွင်းချက်ကလေး သေးသေးကြောင့် အငိုက်ခံလိုက်ရပြီး စစ်ပွဲကြီးတစ်ပွဲလုံး အတုံးအရုံးနဲ့ ရှုံးသွားရဖူးတယ်။

အဲဒီလိုပဲ အခု ဖြစ်ပေါ်လာတာဟာ မြင်းသံခွာ တစ်ဖက်ချောင်တာလိုပဲ၊ မပြင်ဘဲထားရင် အခက်ကြုံလာလိမ့်မယ်၊ ပြင်ရမယ်၊ ပြင်ရမယ်ဆိုတာ ထုတ်ပစ်ရမှာပဲ။

ပိန္နဲသီးတစ်လုံးမှာ တစ်နေရာက အပုပ်ကလေး နည်းနည်းပါနေတယ်၊ ကြာကြာထားရင် အကုန်လုံး ပုပ်ကုန်တယ်၊ ကောင်းတဲ့အပိုင်းက များပေမယ့် အပုပ်ကို မလွှမ်းမိုးနိုင်ဘူး၊ အပုပ်ကလေး နည်းနည်းက အကောင်းတွေ အကုန်လုံးကို လွှမ်းမိုးသွားနိုင်တယ်၊ ဒါ့ကြောင့် အဲဒီ ပုပ်တဲ့အပိုင်းကို စောစောစီးစီး ကွက်လှီးပြီး ခွာထုတ်ပစ်ရမယ်။"

## ဝိုင်းဝန်း၍ ခြောက်လှန့်ထုတ်

"အခုစုံစမ်းကြည့်လို့ သိရတာက အပြစ်ကျူးလွန်တဲ့ သူတွေဟာ ကိုယ့်အပြစ်ကို မရှုတဲ့အပြင် ဘေးပတ်ဝန်းကျင်ကိုလည်း မမှုဘူးလို့ ဆိုပါတယ်၊ အတင့်ရဲလာတဲ့သဘော, မမှုရုံတွင်မက သူ့အုပ်စု ကိုယ့်အုပ်စု သွေးခွဲပြီး ညီညွတ်ရေးကိုပင် ပျက်ပြားအောင် လုပ်မယ့်ပုံ ဆောင်လာတယ်လို့ ဆိုတယ်၊ ဒါဟာ ဒီတိုက်တာနဲ့ ဘယ်လိုမှ မထိုက်တန်တဲ့ စိတ်ထားပဲ၊ ဘယ်လိုလုပ် စဉ်းစားမလဲ၊ ရှေးတုန်းက ရဟန်းတော်

တစ်ပါး တောထဲမှာ နေတယ်၊ အကျင့်သီလကောင်းတယ်။

ဒီတော့ နတ်တစ်ယောက်က နှောင့်ယှက်တယ်၊ ဘာလို့ နှောက်ယှက်သလဲဆိုတော့ ရဟန်းက ကိုယ်ကျင့်သီလကောင်းလို့၊ ကိုယ်ကျင့်သီလကောင်းတော့ သူ့မှာ နေရ ထိုင်ရ ကြပ်လို့၊ ဒီနတ်က အထက် ဘုံဗိမာန်တွေက ဆင်းလာတဲ့ နတ်မဟုတ်ဘူး၊ ရုက္ခစိုးနတ်၊ ဒါကြောင့် သစ်ပင်မှာ နေရတာ။

ရဟန်းရဲ့အထက် သစ်ပင်ပေါ်မှာ မနေဝံ့လို့ မြေပြင်ဆင်းပြီး နေရတဲ့အတွက် ဆင်းရဲလို့ နှောင့်ယှက်တာ၊ ဒါကို ရဟန်းက သိတော့...

**ဝိသုဒ္ဓေါ ဝတ မေ ဝါသော၊ နိမ္မလံ မံ န ပဿသိ၊**
**မာ တွံ ဝိသုဒ္ဓံ ဒူသေဟိ၊ နိက္ခမာဟိ ဝနာ တုဝံ။**

"အို အချင်းနတ်...ငါ၏ ကျင့်သုံးနေထိုင်မှုသည် အမည်းစက်မထင် ဖြူစင်သန့်ရှင်းလှပါသည်၊ အပြစ်မနှော စင်းလုံးချော ဖြစ်နေသော ကျွန်ုပ်ကိုမှ အသင်မမြင်ရှာသလား၊ ကိုယ်ကျင့်သီလ ဖြူလွှနေသည့် အဖြစ်ကို အသင် မဖျက်ဆီးပါနှင့်၊ အသင်သာလျှင် ဤတောအုပ်မှ ထွက်သွားပါ"လို့ နှင်ထုတ်တယ်၊ အဲဒါလိုပဲ တို့ ဒီမှာလဲ နှင်ရမယ်, ဘယ်လို နှင်ရမလဲ။

**သမဂ္ဂေါ ဝတ နော ဝါသော, သာမဂ္ဂီ တွံ န ပဿသိ၊**
**မာ တွံ သာမဂ္ဂီ ဒူသေဟိ, နိက္ခမာဟိ ဣတော တုဝံ။**

လို့ ဆိုပြီး နှင်ရမယ်၊ ဝိုင်းဆိုကြ, ဝိုင်းရွတ်ကြ, ဒါဟာ မန္တာန်ပဲ၊ သူ့အဓိပ္ပာယ်က "တို့တစ်တွေ အားလုံးရဲ့ ကျင့်သုံးနေထိုင်မှုဟာ အစစအရာရာ ညီညွတ်ကြပါတယ်၊ ရေဝယ် သားသလို အကြားမထင်အောင် ညီညွတ်နေတာကို သင် မမြင်ရှာသလား၊ ကျွန်ုပ်တို့ရဲ့ညီညွတ်မှုကို အသင် မဖျက်ဆီးချင်ပါနဲ့၊ အသင်သာလျှင် ဤကျောင်းတိုက်မှ ထွက်ခွာသွားပါ"လို့ အဓိပ္ပာယ်ရတယ်။

ဒီကျောင်းတိုက်မှာ စာချဘုန်းကြီးတွေက အစစအရာရာမှာ ညီညီညွတ်ညွတ် သမဂ္ဂ-သမ္မောဒ ဖြစ်နေကြတာ၊ တခြားမှာဆို အများအားဖြင့် အချင်းချင်း ပြိုင်နေကြတာ၊ ဒီမှာ ဒါမျိုး မရှိဘူး၊ ဒါကို လာပြီး ဖျက်ဆီးလို့ ဘယ်ခံနိုင်မလဲ၊ ဝေးဝေး ရောက်အောင် ခြောက်ထုတ်လိုက်ကြ" ဟူ၍ မိန့်တော်၏။

## မွေးရပ်ဌာနေ သရိုင်မြေသို့
### နှမလာရောက် အပင့်ထောက်၍

၁၃၃၅ ခု (၁၉၇၃ ခု)နှစ် သီတင်းကျွတ်လပြည့်ကျော် ၃ ရက်နေ့က ဖြစ်သည်၊ ဆရာတော်သည် မွေးရပ်ဌာနေ သရိုင်ဇာတိမြေသို့ တစ်ခါတစ်ခေါက် ရှားရှားပါးပါး ကြွရောက်တော်မူခဲ့၏။

မှန်ပါသည်, စစ်ပြီးစ သာသာကပင် ဝက်လက်မြို့တွင် သိမ် သမုတ်ကိစ္စ ကြွရင်း ရွာကို တစ်ခေါက်ရောက်ပြီးနောက် ရွာမှာ မိခင်ကြီးလည်း မရှိတော့ပြီဖြစ်၍ "နောက်မပင့်ကြပါနဲ့တော့"ဟု ပိတ်ပင်ထားခဲ့သည်။

ထို့နောက် အကြောင်းအားလျော်စွာ လာရောက် ပင့်ကြသော်လည်း မလိုက်ဘဲ နေခဲ့၏၊ ဤနည်းဖြင့် နှစ်ပေါင်း ၃၀ နီးပါးခန့် ဇာတိချက်ကြွေ မွေးရာမြေနှင့် ဝေးနေခဲ့သည်။

အင်္ဂုတ္တရ်ပါဠိတော် တိကနိပါတ် "သာရဏီယ" သုတ်၌ "ထီးဆောင်းမင်းတို့အတွက် မွေးဖွားရာအရပ်ကို မမေ့အပ်၊ ရှင် ရဟန်းတို့အတွက် လူ့ဘောင်မှ ခွာရှောင်၍ ရှင်ရဟန်းဘောင်သို့တက်ရာ အရပ်ကို မမေ့အပ်"ဟု ဟောထားသော ဒေသနာတော်ရှိ၏။

သို့သော်လည်း ဆရာတော်မှာ စာပေ ပို့ချခြင်း, ကျမ်းစာရေးသားခြင်း, ဘုရားသာသနာတော်အတွက် ကျက်သရေဖြစ်အောင် ဆောင်ရွက်ခြင်းစသော အလုပ်တို့ဖြင့် မအားလပ်အောင် ရှိနေခဲ့သည်၊ ထို့ကြောင့် ဇာတိမြေကို မရောက်နိုင်အောင် ဖြစ်နေခဲ့သည်။

ယခုအခါတွင်ကား ဆရာတော်မှာ သက်တော် ၇၄ နှစ်ပင် ရှိနေလေပြီ၊ ဤနှစ် ဝါဆိုဦးတွင် သရိုင်ရွာမှ နှမဝမ်းကွဲ တော်သူက ထူးထူးခြားခြား ပင့်ပြန်၏။

ပင့်သော်လည်း ရမည် မထင်ပါဟု အများက တားကြသည့်အထဲမှ ဇွတ်ကဲ၍ ထွက်လာခဲ့ခြင်း ဖြစ်သည်ဟုလည်း နှမဝမ်းကွဲက လျှောက်ထား၏။

## အများဆိုင်ဘုန်းကြီး ဖြစ်နေပြီ

ကိစ္စမှာ သူတို့ပြုပြင်ထားသော ရွှေသာလျောင်းဘုရားကြီးရော, တန်ဆောင်းရော ရေစက်ချပွဲနှင့်တွဲ၍ မြေများ ရှင်ပြုပွဲအတွက်ဟု ဆိုသည်၊ ထိုအခါ ဆရာတော်က အမိန့်ရှိ၏၊ "သင်တို့ကတော့ ငါ့ကို ဆွေဘုန်းကြီး မျိုးဘုန်းကြီးဆိုပြီး သံယောဇဉ်နဲ့ လာပင့်ကြတာပဲ, ဒါပေမယ့် ငါက ယခုအခါမှာ ဆွေဘုန်းကြီး မျိုးဘုန်းကြီး မဟုတ်တော့ဘူး, သင်တို့ဆွေမျိုးတွေကသာ ပိုင်ဆိုင်တဲ့ ဘုန်းကြီး မဟုတ်တော့ဘူး"။

ဤသို့ အမိန့်ရှိလိုက်သောအခါ အစကမှ စိတ်တထင့်ထင့်နှင့် လာခဲ့ရသည့်အထဲ ယခုလို ဆရာတော်၏စကားကို ကြားလိုက်ရသောအခါ နှမဖြစ်သူမှာ ပူဆာနွမ်းလျ မျှော်လင့်ချက်များ ခန်းခြောက်ရတော့၏၊ မိန့်ကြားချက်တို့မှာ "နေပူကလာသူကို ရင်ဝ ဆီး၍ကန်"သလိုလည်း ဖြစ်တော့သည်၊ မျက်ရည်လည်လည်ရွှဲ ဝမ်းနည်းလာရတော့သည်၊ မနည်းထိန်းထားသည့် ကြားမှပင် ငိုမဲ့မဲ့ ဖြစ်၍ သွားရတော့သည်၊ "ရွာက လူတွေ ဒါကြောင့် ပြောတာကိုး, လိုက်မယ် မထင်ဘူးတဲ့"။

ဆရာတော်က ဆက်လက် အမိန့်ရှိပြန်သည်၊ "ယခု ငါ့ကျောင်းတိုက်မှာ သံဃာတွေ ၅၅၀ ကျော် ရှိနေတယ်၊ ဒီသံဃာတွေ ဒီလို နေနိုင်အောင် တိုင်းပြည်က ဝိုင်းပြီး ထောက်ပံ့ထားကြတာ၊ ငါကလဲ တိုင်းပြည်နဲ့ သာသနာတော်အတွက်ပဲ ဆောင်ရွက်နေတာပဲ"

ရှင်းရှင်း ပြောရရင် ငါဟာ အများအတွက် အလုပ်လုပ်ပေးနေတဲ့ ဘုန်းကြီးပဲ၊ ယခုအချိန်မှာ အများကလဲ ဒီလိုပဲ ငါ့အပေါ် မြင်လာကြတယ်၊ "အများအတွက်ဘုန်းကြီး"လို့၊ ဒါကြောင့် ယခုအခါ သင်တို့ ဆွေမျိုးတစ်စုသာ ပိုင်တဲ့ဘုန်းကြီး မဟုတ်တော့ဘူး၊ အများဆိုင်, အများပိုင်ဘုန်းကြီး ဖြစ်နေပြီ"

ထပ်တလဲလဲ အမိန့်ရှိနေသော ဆရာတော့် စကားများကို နှမဖြစ်သူက စိတ်မဝင်စားနိုင်၊ စိတ်လဲ မဝင်စားချေတော့၊ စိတ်အားလျော့စွာဖြင့် မျက်နှာ အောက်ငုံ့နေစဉ် ဆရာတော်က ဆက်လက် အမိန့်ရှိပြန်၏။

"ဒါကြောင့် အများကိစ္စဆောင်ရွက်ဖို့ အများပင့်အနေနဲ့ ပင့်ရင်တော့ လိုက်နိုင်ကောင်းတန်ရဲ့"။

## မဲ့ပြီးခါမှ ပြုံးလာရခြင်း

ထိုအခါမှ နှမဖြစ်သူမှာ အတော်အတန် အခွင့်အလမ်း ရောင်ခြည်ကလေးသန်းလာသဖြင့် အနည်းငယ် လန်းလာရတော့သည်၊ "အများကိစ္စဆောင်ရွက်ဖို့ အများပင့်အနေနဲ့ဆိုတော့ တပည့်တော်မ ဘယ်လို လုပ်ရမလဲ"ဟု မရဲတရဲ ပြန်၍ လျှောက်ရတော့၏၊ ထိုအခါ ဆရာတော်က "ရွှေသာလျောင်း ရေစက်ချ, ရှင်ပြုကိစ္စ ဆိုတာကတော့ ငါပါခြင်းကြောင့် ဘာထူးမှာလဲဟယ်, အဲဒီနယ်မှာ ရှိတဲ့ ဆရာတော် သံဃာတော်တွေနဲ့ ပြီးနိုင်တဲ့ ကိစ္စပဲ၊ ပြီးအောင် ဆောင်ရွက်ပါ၊ ငါလာရရင် "ငါတစ်ပါးတည်း လာရုံနဲ့ ဘာအကျိုးရှိမှာလဲ, ဒီတော့ အကျိုးရှိအောင်, အများအကျိုးဖြစ်အောင် အနည်းဆုံး ငါ့နောက်က သံဃာ ၁၀၀ ပါမယ်၊ အဲဒီ သံဃာတွေနဲ့ လာနိုင်အောင် အများက ဝိုင်းပင့်ရင်တော့ ငါလာခဲ့မယ်။"

နှမဖြစ်သူမှာ ဆရာတော့်စကား ဆုံးသည်နှင့် ပြီးပန်းပွင့်ရပါလေပြီ၊ အေးမြသော ရေစင်ဖြင့် နှလုံးကို ဖြန်းသလို လန်းရပါလေပြီ၊ ပိတ်နေသော တံခါးကြီး ပွင့်လာရပြီ မဟုတ်ပါလော၊ အနှိုင်းအဆ ဖော်မပြနိုင်သော ပီတိ သောမနဿတို့ဖြင့် တကြွကြွ ဝမ်းမြောက်လာရတော့၏၊ "ပင့်မယ်, ဖြစ်အောင် ပင့်မယ်, ဘာမဖြစ်နိုင်စရာရှိသလဲ"ဟု စိတ်ထဲမှာ ခံယူထားရင်း နှမဖြစ်သူက ပိုင်ပိုင်ကြီး လျှောက်ထားတော့၏၊ "ဒီကိစ္စအတွက် တပည့်တော်မ ရွာပြန်တိုင်ပင်မယ်ဘုရား, ပင့်ဖြစ်အောင် ပင့်မယ်ဘုရား"

"အေး-တိုင်ပင်ချေ, တိုင်ပင်လို့ရရင်လဲ ယခုဝါဆိုဦးမှာတော့ မိုးနဲ့လေနဲ့ ငါမလာသေးဘူး၊ မိုးကင်း လေကင်း သီတင်းကျွတ်မှပဲ လာကြမယ်၊ ရှင်ပြုကိစ္စ ရေစက်ချကိစ္စတို့ကတော့ သတ်မှတ်ထားတဲ့အတိုင်း ယခု ဝါဆိုဦးမှာပဲ ပြီးစီးအောင် လုပ်လိုက်ကြ"ဟု ဆရာတော်က မှာသည်။ "တင်ပါဘုရား, အဲဒီအတိုင်းပဲ ဆောင်ရွက်ပါ့မယ်, သီတင်းကျွတ်မှာ ဘုန်းကြီး ကြွလာရင် ကျေနပ်ပါပြီ"။

## ရွာပြန်လှလှ အောင်ပွဲရ

နှမဖြစ်သူသည် သွက်လက်စွာဖြင့် ကိုယ်လက်လှုပ်ရှား ပေါ့ပါးလာ၏၊ စိတ်လန်းလျှင် ကိုယ်လည်း ကျန်းမာနိုင်သည် မဟုတ်ပါလော၊ ဤသို့လျှင် အောင်ပွဲရ နှမဖြစ်သူသည် ဝမ်းသာရွှင်မြူး ကြည်နူးလှစွာ ဝင့်ကြွားစွာဖြင့် ရွာသို့ ပြန်သွားခဲ့လေသည်၊ လမ်းတစ်လျှောက်တွင်ကား...

"အင်း-ပြည်တော်ပြန် ပင့်ဆောင်ရေးအတွက် ဆောင်ရွက်ရသော ကာဠုဒါယီမထေရ်မြတ်လို မိမိသည်လည်း အခက်အခဲကြားမှ အောင်ပွဲရခဲ့သည် တကား"လို့များ စဉ်းစားနေမည်လား မသိ၊ ရွာသို့ ပြန်ရောက်၍ အကြောင်းစုံကို ဖွင့်ဟပြောလိုက်လျှင်ပင် အားလုံးက ဝမ်းသာသွားကြ၏၊ "ဟာ-ဖြစ်တယ်, ပင့်မယ်၊ ဒီလို သံဃာအများနဲ့ ကြွလာမယ်ဆိုရင် ပိုပြီးတော့တောင် သဘောကျသေး၊ နောက်က သံဃာတွေ ဘယ်လောက်ပဲ များများ, ဖြစ်နိုင်တယ်၊ ဒီတာဝန်ကို ဝိုင်းပြီး ချီကြတာပ၊ ဖြစ်တယ်"။

ဤသို့လျှင် ဆွေမျိုးအင်အား တောင့်တင်းသည့် အလျှောက် တစ်ယောက်တစ်ပေါက် ပြောကြရင်းက တစ်ရွာလုံး လူစုပြီး စည်းဝေးကြတော့သည်။

အစည်းအဝေးကြီး တစ်ခုလုံးလည်း ဆွေမကင်း မျိုးမကင်းတွေချည်းပင် ဖြစ်ကြ၍ ဝမ်းမြောက်ကြ, ကြည်နူးကြ, ရွှင်ပြုံးနေကြတော့သည်။

"ဒီလို ကြွလာမယ်ဆိုတာ နည်းတဲ့ စေတနာ မဟုတ်ဘူး၊ ကျွန်တော်တို့ဘက်ကလဲ အလွန့်အလွန် ရခဲတဲ့ အခွင့်အရေးကြီးပဲ၊ ကြီးမားတဲ့ လာဘ်ကြီး တစ်ပါးလဲ ဖြစ်ပါတယ်၊ ဒါကို အလွှတ်ခံလို့ မဖြစ်ဘူး၊ အလွှတ်မခံနိုင်ဘူး၊ ပြီးတော့ ဆရာတော်ဟာ ရွာကို မရောက်တာလဲ ကြာပြီ မဟုတ်လား၊ ယခုအခါ သူ့မှာ တိုင်းသိ ပြည်သိ ဖြစ်ရုံမက ကမ္ဘာကပါ သိနေကြပြီ၊ ညွှတ်နေကြပြီ၊ ဒါကြောင့် ဆရာတော် ပြောသလိုပဲ အများဆိုင်ဘုန်းကြီး ဖြစ်နေပြီဆိုတာ ဟုတ်ပါတယ်၊ ဒါကြောင့် အများအကျိုးရှိအောင် စီစဉ်ပေးတာပဲ၊ ဒါကို ကျွန်တော်တို့ဘက်က ဖြစ်အောင် ပင့်ကြမယ်၊ သီတင်းကျွတ်ရင် ကြွလာမယ့် ရက်ကိုသာ သိအောင် ဆရာတော်ကို ထပ်မံ လျှောက်ပါ"

ဤသို့ ဆုံးဖြတ်ကြ၍ အသေးစိတ် အစီအစဉ်ကို ဆက်လက် ညှိနှိုင်းတိုင်ပင်နေကြတော့သည်။

## ဆင်ဖြူတော်နှစ်စီး ခရီးထွက်သလို

ဤကဲ့သို့ "သရိုင်တွင် တိုင်ပင်စည်းဝေးကြသည်" ဆိုသော သတင်းကို ရွာနီးချုပ်စပ်တို့ကပါ ကြား၍ အားပါးတရ "သူတို့ကလဲ ပါဝင်ကြမယ်"ဟု ဆိုလာကြပြန်၏၊ ထိုမှတစ်ဆင့် ကျယ်ပြန့်သွားပြန်၍ ဝက်လက်မြို့ကလည်း "သူတို့အတွက် တာဝန်ပေးပါ"ဟု ဆိုလာကြပြန်သည်၊ ဤသို့လျှင် ကြွလာမည် ဆိုသဖြင့် တစ်နယ်လုံးက အုန်းအုန်းကျွက်ကျွက် တက်တက် ကြွကြွ တောင့်တမျှော်လင့်နေကြတော့သည်။

ထိုနှစ် ဝါတွင်းက ဖြစ်သည်၊ ဆရာတော်က "သီတင်းကျွတ်လပြည့်ကျော် ၃ ရက်နေ့မှာ သရိုင်သို့ ကြွလာမည်"ဟု ကြိုတင်ရက်ချိန်းပေးထားခဲ့သည်၊ ဤအကြောင်းကို ရွှေကျင်သာသနာပိုင် (ဝိသုဒ္ဓါရုံ) မြောင်းမြဆရာတော်ဘုရားကြီးအားလည်း လျှောက်ထားရာ "ငါလဲ လိုက်ဦးမယ်"ဟူ၍ မိန့်တော်မူ၏။

ထိုအခါ ကြွကြမည့် သံဃာ့ပရိသတ် ၁၁၀ မှာ "ရွှေဖလားတွင် အနားပန်းကွပ်"ဆိုသလို ပိုမို၍ မြင့်ကြွယ် ဝင့်ထည်စရာ ဖြစ်၍ သွားတော့၏။

(မြောင်းမြဆရာတော်ဘုရားကြီးဆိုသည်မှာ ... ဆရာတော် အရှင်ဇနကာဘိဝံသ ၁၃ နှစ်သား အရွယ်ကပင် ထိန်းသိမ်းစောင့်ရှောက်လာခဲ့သော ဆရာတော်ကြီးတစ်ပါး ဖြစ်သည်။)

ရှေ့ဆုံးက အရပ်တော်ကြီး မားမား, ကိုယ်လုံးတော်ကြီး ထွားထွားနှင့် ရွှေကျင်သာသနာပိုင် မြောင်းမြဆရာတော်ဘုရားကြီး, ဒုတိယအနေနှင့် အရပ်တော်လည်း ကြွကြွ, ကိုယ်လုံးတော်ကြီး ဝဝနှင့် အမရပူရ မဟာဂန္ဓာရုံ ကျမ်းပြုအကျော်အမော် အရှင်ဇနကာဘိဝံသ ဆရာတော်, ထို့နောက်တော်မှ စာချဘုန်းကြီးများ, လက်ထောက်စာချဘုန်းကြီးများ သံဃာတော်ငယ်များ အားလုံး ၁၀၀ ကျော်၊ သင်္ကန်းအညီရောင် တစ်သွေးတည်း တစ်မူတည်း၊ ကြီးစဉ်ငယ်လိုက် သပိတ်ကိုယ်စီ, ယပ်တောင်ကိုယ်စီဖြင့် တစိုက်စိုက် တောလမ်း၌ ခရီးကြွနေကြမည်ကို ကြိုတင် မျှော်မှန်း ရော်ရမ်း၍ ကြည်ညိုနေကြသည်၊ တချို့ကလည်း "နောက်ပါ ပရိသတ်အခြွေအရံနှင့် တောမြိုင်ယံသို့ ဆင်ဖြူတော်ကြီးနှစ်စီး ခရီးထွက်သလို"ဟု ဥပမာတင်စားလိုသူများလည်း ရှိကြ၏။

## မွေးရပ်ဌာနီ သရိုင်ဆီသို့

ကြွရမည့် ရက်သို့ ရောက်လာပါလေပြီ၊ နံနက် အရုဏ်ဆွမ်းဘုဉ်းပေးပြီးနောက် အမရပူရမှ ၆နာရီခွဲ အချိန်တွင် တစ်စီးလျှင် အပါး ၃၀ ကျော်ဆံ့သည့် ရန်အောင်မန်းကားကြီး သုံးစီး, မြောင်းမြဆရာတော် နှင့် မဟာဂန္ဓာရုံဆရာတော်တို့အတွက် လင့်ရိုဗာ ကားငယ်နှစ်စီးတို့ဖြင့် ခရီးစတင် ထွက်ခဲ့ကြသည်၊ အားလုံးသံဃာ ၁၀၃ ပါး, သုံးစွဲနေကျ သပိတ် ယပ် နေကထိုင် မတ်ခွက် လက်သုတ်ပုဝါ ဖွန်းတို့ပါ ကိုယ်စီ ပါကြရ၏။

နံနက် ၉ နာရီခန့်တွင် ဆားတောင်သို့ ရောက် ကြ၏၊ ကြွလာမည်ဆိုသည်ကို ကြိုတင်သိထားကြ သဖြင့် ဆားတောင် စံပြကျောင်းက ကော်ဖီနှင့် ပေါက်စီတို့ကို ဆီးကြိုကပ်လှူကြသည်၊ ခေတ္တရပ်နား ဘုဉ်းပေးကြပြီးလျှင် ဆက်လက်၍ ထွက်ခွာလာကြ ရာ ၁၀ နာရီခွဲအချိန်မှာ ဝက်လက်မြို့သို့ ရောက်ကြ တော့၏၊ လှူပရိသတ်တို့ ဝိုင်းအုံရောက်လာကြ၍ ဝမ်းသာအယ်လဲ နှုတ်ဆက်ကြ, ရှိခိုးကြ, ကန်တော့ ကြနှင့် ရွှင်မြူးကြည်နူးနေကြတော့သည်။

ထို့နောက် သံလမ်း အနောက်ဘက် ဆိုင်ရာ ဒါယကာ ဒါယိကာမတို့က စပေါင်း၍ ဘုရားကြီး တိုက်, မစိုးရိမ်တိုက်, မြို့မတိုက် သုံးဌာနမှ ခွဲ၍ တည်းခိုကြ, ရေချိုးကြ, အနားယူကြသည်။

ဒါယကာ ဒါယိကာမတို့ကား ကြွလာသော သံဃာတော်ပရိသတ်ကို ရင်သပ်ရှုမော အံ့သြနေကြ ဟန် ရှိ၏။

အဘယ့်ကြောင့်ဆိုသော် ၁၀၀ ကျော်မျှသော သံဃာတွေအားလုံး စက်ရုံတစ်ခုမှ ပုံစံခွက် တစ်ခုထဲ ထည့်ပြီး နှိပ်လွှတ်လိုက်သလို တစ်ပုံစံတည်း, တစ် မူတည်း, တစ်ရွယ်တည်း ဖြစ်နေသောကြောင့် တည်း။

## တစ်တောထွက်လျှင် တစ်တောဝင်၍

ညနေ ၂ နာရီခန့်ရှိသောအခါ သံဃာတော် အားလုံး မဆုံးသေးသော ခရီးကို ဆက်ဖို့ရန် ပြင် ဆင်ကြ၏၊ မြင်တော်ရွာဘက်သို့ အားလုံး ခြေဦး လှည့်လိုက်ကြပါပြီ၊ ဝက်လက်မှ မြင်တော်သို့ လမ်း မကောင်း၍ ကားကြီးများဖြင့် ဆက်လက်သွားရန် မဖြစ်နိုင်ပါ၊ ထို့ကြောင့် တစ်မိုင်သာသာ ဝေးသော ထိုခရီးကို သံဃာတော် အပါး ၁၀၀ က ရှေ့နောက် စီတန်း၍ တောလမ်းမှ ခြေလျင် ကြွကြသည်၊ အားလုံး သင်္ကန်းရုံလျက် သပိတ်ကိုယ်စီ, ယပ်ကိုယ်စီ စီစီညာညာ (ပရွက်ကျင်နီတန်းကြီးကဲ့သို့) တစ်ပါး နောက် တစ်ပါးလိုက်၍ တစိုက်စိုက် ကြွနေကြသည်၊ မြင်ရသူအပေါင်း ကြက်သီးဖြန်းဖြန်း ထကြရသည် တည်း၊ ယခု သံဃာတော်များ ကြွနေသော ခရီးကို မြေပုံဖြင့် ဖော်ပြရလျှင် ဝက်လက်မှ အရှေ့စူးစူးသို့ ကြွနေကြပါပြီ၊ မြင်တော်ရွာသို့ ရောက်မည် ဖြစ်၏၊ ယင်းမှ တစ်ဖန် အင်းရေပြင်ကျယ်ကြီးကို ဖြတ်၍ အရှေ့ဘက်ကမ်းတွင် ရပ်ရပါမည်၊ ထိုနောက်မှ တစ်မိုင်ခန့်ဝေးသော သရိုင်ရွာသို့အထိ ခရီးချီကြရ ပါမည်။

မိုးနှောင်း၍ ဆောင်းဝင်ခါနီးမို့ ရာသီက မပူ မအေး, အချိန်က ညနေစောင်း နေသာသာ, ပတ်ချာဝန်းကျင် သစ်ပင် တောတောင်တို့က စိမ်းစို ဆဲ, ကောက်ပဲသီးနှံတို့က တချို့သိမ်းပြီးစ, စိတ်ချမ်း မြသော ထိုကာလ ထိုသမယတွင် သံဃာတော် အရှင်မြတ်တို့ ဒေသစာရီခရီး ကြွချီနေကြသည်။

မြင်တော်ကုန်းတန်းနှင့် စိမ်းစိုသောနောက်ခံ တောင်တန်း တောင်ရိပ်တို့ဖြင့် တငြိမ့်ငြိမ့် ခရီးနှင် နေကြ၏၊ တစ်တောဖြတ် တစ်တောဝင်, တစ်မြိုင် ဖြတ်၍ တစ်မြိုင်ကူးနေကြသောအခါ..."လောဘ မစော, လူမနှောသည့်, တစ်တောထွက်လျှင်, တစ် တောဝင်၍, တစ်ပင်ထွက်သွား, တစ်ပင်နားလျက်" စသော ရှင်မဟာသီလဝံသ၏ တောလားစာပိုဒ်များ ကို သတိရနေမိကြတော့၏၊ ဤခရီးလမ်းကြမ်းတွင် ဆရာတော်ဘုရားကြီး နှစ်ပါး မပါပါ၊ ဆရာတော် နှစ်ပါးကို လင့်ရိုဗာကား ကလေးဖြင့်ပင် ထိန်းထိန်း မမ ဘေးမခအောင် ဤလမ်းကြမ်းမှ ပို့ပေးကြသည်။

မြင်တော်ရွာဆိပ်ကမ်း၌ ကြိုဆိုရေးမဏ္ဍပ်ကြီး များကို ထိုးထားကြ၏၊ စားပွဲထိုင်ခုံ အစုံချ၍ အဖျော် ယမကာများဖြင့် စောင့်ကြိုနေကြသည်၊ ဆရာတော် ကြီးနှစ်ပါးနှင့် သံဃာတော်များ မရောက်မီကပင် မြင်တော်ရွာမှတစ်ရွာလုံးလိုလို အင်းရေဆိပ်သို့ ဆင်း ကြပြီး "အနီးအနားရွာတို့က ဒါယကာ ဒါယိကာမ တို့ပါ ကမ်းလုံးညွတ်မျှ ကြိုဆိုနေကြ၏၊ အဝေးမှပင် မြင်နိုင်ကြသည်၊ ကြိုဆိုနေသော ပရိသတ်ကြီးမှာ ဖွေးဖွေးလှုပ်နေကြ၏၊ ကြိုဆိုသည့်အထဲတွင် သံဃာ တော် အရှင်သူမြတ်တို့ကိုလည်း မြင်နေကြရသည်။

## အပြုံးပန်းဖြင့် ကြိုကြ ဆိုကြ

"ဟော ကြွလာကြပြီ, ဟိုမှာ ကြွလာနေကြပြီ၊ တောစပ်ကို ရောက်လာနေကြပြီ၊ တစ်သီတစ်တန်းကြီး နီမြန်းညိုမောင်းတဲ့ သင်္ကန်းအရောင်တွေနဲ့ပါလား, ကြည့်စမ်းပါဦး, သပိတ်တွေ ကိုယ်စီလွယ်လို့, ယပ်တွေကလဲ ပါသေး၊ အလိုလေး, ကြည်ညိုဖွယ်ကြီး ကောင်းလိုက်ပါဘိ"

စောင့်ကြိုနေကြသော ပရိသတ်ကြီးသည် လှုပ်လှုပ်ရွရွ ဖြစ်လာကြသည်၊ ပြောကြဆိုကြ ချီးကျူးကြနှင့် တရွရွဟန်ပြင်နေကြပြီ၊ အားလုံး မတ်တပ်ရပ်၍ သံဃာများ မရောက်မီကပင် လက်အုပ်ကလေးတွေ ကိုယ်စီချီနေကြ၏၊ ပြုံးပန်းကိုယ်စီ ပွင့်နေကြပြီ၊ ရင်ထဲလှိုက်ဖို ကြည်ညိုသော ရေအလျဉ်ကြီးများ စီးသွား၍ ရင်ထဲအပြည့် ပီတိလှိုင်းလုံးကြီးများ ရိုက်ခတ်နေကြလေသလော၊ သံဃာတော်များအနားသို့ ရောက်လာကြသောအခါ ပရိသတ်အားလုံး မြေပြင်ပေါ်တွင် ထိုင်ချလိုက်ကြ၏၊ လက်အုပ်ဖူးငုံ ကြာပဒုံတို့ဖြင့် မြောက်ချီကာ မြေပထဗျာနှင့် သူတို့၏ နဖူးကို ငုံ၍ ထိလိုက်ကြတော့သည်၊ သူတို့၏ နိဝါတ, သူတို့၏ သဒ္ဓါသမ္မာနှင့် သူတို့၏ စေတနာတို့မှာ သူတို့၏ လက်အုပ်ဖူးငုံ ကြာပဒုံကလေးတို့ အထဲမှာ ရှိကြပါသည်၊ အားရပါးရ ကန်တော့ကြ၍ အားရပါးရ ဦးတိုက်ကြ၏၊ ဝမ်းသာကြည်နူး၍ ကိုယ်စီကိုယ်င ရွှင်မြူးနေကြသည်၊ အချို့ ရွာနီးချုပ်စပ်ပုဂ္ဂိုလ်တို့က ဆရာတော် အရှင်ဇနကာဘိဝံသကို မမြင်ဘူးကြ၍ တိုးဝှေ့ပြီး ကြည့်ကြသည်၊ အသက် ၈၀ ကျော် ၉၀ နီးပါး အဘိုးအဘွားတို့ပင် ပါကြ၏၊ ဆရာတော်ကမူ ခွင့်လွှတ်သော အပြုံးဖြင့် ပြုံးနေတော်မူသည်၊ သူတို့သည် "တို့နယ်က ပေါက်ဖွားလာတဲ့ အကျော်အမော် ဆရာတော်တစ်ပါး"ဟု ဝင့်ကြွားလိုကြဟန်ရှိ၏၊ သူတို့၏ မျက်နှာကို ကြည့်ခြင်းအားဖြင့် သိနိုင်ကြပါသည်။

## ရေပြင်အနံ့ ပျံ့စေသော်

သူတို့သည် ဆရာတော့်အနားတွင် ဝေ့ကာ ပတ်ကာ ဖူးမဝအောင် ဖြစ်နေကြသည်၊ ဆရာတော့်ထံမှလည်း တစ်စုံတစ်ခုသောစကားကို ကြားလိုကြဟန်တူ၏၊ ထို့ကြောင့် "ဩဝါဒအနည်းငယ် ပေးတော်မူပါဘုရား"ဟု အရဲစွန့်၍ လျှောက်ကြသည်၊ သို့ဖြစ်၍ ကပ်လှူကြသော အဖျော်ယမကာတို့ကို ဘုဉ်းပေးတော်မူပြီးလျှင် သံဃာတော်အရှင်သူမြတ်တို့က မေတ္တာသုတ်ပရိတ် ချီးမြှင့်တော်မူကြ၏၊ ထို့နောက်မှ မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသက ဩဝါဒပေးတော်မူသည်။

"ရှေးတုန်းက သရိုင်နဲ့ မြင်တော် ပွဲခင်းတစ်ခုမှာ ရန်ဖြစ်ကြဖူးတယ်၊ တစ်ဖက်နဲ့တစ်ဖက် ရိုက်ကြပုတ်ကြမယ်လို့ ဟန်ပြင်နေကြတုန်း သရိုင်မှ (ဘိုးဇောတိ) က "ညဉ့်မှာမို့ ရန်သူထင်နေကြတာပါကွာ, မနက်လင်းတော့ မင်းတို့ အချင်းချင်း ဆွေမျိုးတွေလို့ သိလာကြမှာပါ"ဟု ပြော၍ ရန်ပွဲ ဖြေခဲ့ရသတဲ့၊ ရန်ပွဲလဲ စဲသွားပါသတဲ့၊ တကယ်ပါပဲ မနက်လင်းတော့ သူတို့ တစ်တွေဟာ ဆွေမကင်း မျိုးမကင်းတွေ ဖြစ်နေကြသတဲ့၊ ကံကောင်းလို့ လက်လွန်မကုန်ကြတယ်၊ ဒါဟာဆိုရင် သရိုင်နဲ့ မြင်တော် ဆွေမျိုးသိပ်မကင်းကြဘူးလို့ ဆိုတဲ့အဓိပ္ပာယ်ပဲ" ဤသို့ အစချီ နိဒါန်းပျိုးပြီးလျှင် တစ်ဦးနဲ့တစ်ဦး မေတ္တာထားကြဖို့, စာနာဖို့, ငဲ့ညှာဖို့, မတရားအမှုတွေ မပြုမိကြဖို့ ဩဝါဒပေးတော်မူသည်၊ ထို့နောက် သံယုတ်, အင်္ဂုတ္တိုရ်လာ ပုဂ္ဂိုလ်လေးမျိုးပြ "တမောတမပရာယဏ"သုတ်တော်ကို ဟောပြ၍ ဩဝါဒကို အဆုံးသတ်တော်မူသည်။

ထို့နောက် မြင်တော်မှ သရိုင်သို့ ခရီးရေပြင်ကြီးကို ဖောင်ကြီးပေါ်တွင် သံဃာတော်များက အသံချို့စက်များဖြင့် တညီတညာတည်း တစ်ပြိုင်နက် မေတ္တာသုတ်, မင်္ဂလသုတ်, မဟာသမယသုတ်, ဓမ္မစကြာသုတ် စသည်တို့ကို ရွတ်ဆိုဖို့ရန် ဖြစ်သည်၊ ရေသတ္တဝါများနှင့် ပတ်ဝန်းကျင် ကုန်းသတ္တဝါများ "ဘေးရန်ခပ်သိမ်း ကင်းငြိမ်းကြပါစေ" မေတ္တာဝေသောသဘောဖြစ်၏။

သံဃာအများစု အထုအထည်၏ မေတ္တာဓာတ်သည် ရေပြင်အနံ့ ပျံ့စေသော်ဟုလည်း ရည်ရွယ်သည်။

## ဦးတချချနှင့် ဖူးမဝနိုင်ပါ

ထိုအစီအစဉ်အရ ဖောင်ကြီးပေါ်သို့ တက်ကြသောအခါ သံဃာတစ်ဝက်မျှပင် မတက်ရသေး၊ ဖောင်ကြီးက မြုပ်လု မြုပ်လု ဖြစ်နေတော့၏၊ ထို့ကြောင့် ဖောင်ပေါ်မှာ သံဃာ ၂၅ ပါးမျှလောက်သာ ချန်ထားပြီး ကျန်သံဃာများက လှေသမ္ဗန်များဖြင့် ကူးကြရန် စီမံရတော့သည်၊ အင်းရေပြင်ကြီးသည် ကျယ်ပြန့်လှပါ၏၊ ကာဘိုးဆည်ကြီးနှင့် ဆက်နေသည်၊ အန်အကျယ်ကပင် နှစ်မိုင် ရှိသည်ဟု ဆိုပါ၏၊ အလျားကား ထို့ထက်ပင် မြောက်မြားစွာ ရှည်လျားပါလိမ့်မည်၊ မျက်စိတဆုံး တစ်မျှော်တစ်ခေါ်ကြီးပင်တည်း၊ ဘဝသံသရာကျယ်ပြောပုံကို ရေပြင်ကျယ်နှင့် နှိုင်းကြ၏၊ "ဤရေပြင်ကြီးမျိုးပေလော"ဟု တွေးတောနေမိကြတော့သည်။

ရေလယ်တွင် လှေငယ်များ အတော်စုံလာသောအခါ စီစဉ်ထားကြသည့်အတိုင်း စတင် ရွတ်ဆိုကြတော့၏၊ ဖောင်ပေါ်မှာချည်း တစည်းတရုံးတည်းကား မဟုတ်တော့ချေ၊ သို့ရာတွင် တတ်နိုင်သမျှ လှေများကို စုစည်းပေါင်းရုံးကာ မေတ္တာ အထုအထည်တို့ဖြင့် ပတ်ချာဝန်းကျင်၊ ထက်ခွင်မိုးရောက်၊ မြေအောက်မကျန်၊ ဘေးရန်ခပ်သိမ်း၊ အပူငြိမ်းဖို့၊ မေတ္တာပို့သကြပါသည်၊ မမြင်အပ်စကောင်းသော မေတ္တာဓာတ် မေတ္တာလှိုင်း အရှိန်အဟုန်တို့သည် "လှေတက်ကြောင့် ဝိုင်းစက်သွားရသော လှိုင်းဂယက်လေးများပမာ" စကြဝဠာတံတိုင်းအထိ ဝိုင်းအိကာ ပျံ့နှံ့သွားကြမည်သာတည်း။

ဤသို့ဖြင့် မြောင်းမြဆရာတော်ဘုရားကြီးနှင့် သံဃာအချို့စီးသော လှေတို့မှာ ညနေဆည်းဆာတွင် မမှောင်ခင် အရှေ့ဘက် သရိုင်ဆိပ်ကမ်းသို့ ကပ်ဝင်ကြလေသည်၊ ထိုတွင်လည်း သရိုင်ရွာနှင့် တကွ ညောင်ပင်တွင်း၊ မင်းကုန်း၊ ခင်မင်၊ စမွန်း စသောရွာတို့မှ ပေါင်းစုကြ၍ လမ်းလုံးညွတ်မျှ ကြိုဆိုနေကြသည်၊ ဒါယကာ ဒါယိကာမတို့မှာ သဒ္ဓါဗလဝကြောင့် မြူးကြွ ဝမ်းသာနေကြ၏။

ရှိခိုးကြ၊ မြတ်နိုးကြ၊ ကန်တော့ကြနှင့် မဝနိုင်၊ မပြီးနိုင် ဖြစ်နေကြသည်၊ ထိုတွင် သူတို့ မျှော်လင့်ထားသော ပုဂ္ဂိုလ်တစ်ပါးကို မမြင်ရသေး၍လော မပြောတတ်၊ အားမရသလို မဝသေးသလို ဘဝင်မကျ ဖြစ်နေကြဟန်ရှိသည်။

## တမ်းတမ်းတတ မျှော်ခဲ့ရသမျှ

ထိုနေ့ ညနေက ဖောင်ကြီးဖြင့် ဖြတ်ကူးဖို့ အစီအစဉ်မှာ ဖောင်ကြီးက မနိုင်သဖြင့် အစီအစဉ်အချို့ကို ပြောင်းလဲကာ လှေများဖြင့် လာခဲ့ကြရ၏၊ ရုတ်တရက် အပြောင်းအလဲမို့ လှေများ ထပ်မံ စီစဉ်နေကြရသည်၊ ထို့ကြောင့် မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသနှင့် သံဃာအချို့ မြင်တော်ကမ်းစပ်မှာပင် ဆိုင်းငံ့နေကြရ၏၊ ဆရာတော်မှာ သံဃာတွေ ကုန်အောင် စောင့်ပြီးမှ နောက်က လိုက်ရသောကြောင့် မမှောင်ခင် သရိုင်သို့ မရောက်နိုင်တော့ချေ။

ထိုနေ့ ညနေက သံဃာတွေကို ဖူးရသည်မှာလည်း မကြုံစဖူး ထိုနယ်တွင် ထူးလှပါ၏၊ ဝက်လက်မှစ၍ မြင်တော်၊ မြင်တော်မှတစ်ဖန် သရိုင်အထိ လမ်းတစ်လျှောက်လုံး ကုန်းလမ်း ရေလမ်း သိမ့်သိမ့်တုန်မျှ လှုပ်ရှားနေကြပါသည်၊ ဝန်းကျင်တစ်ခုလုံး ရွှင်ပြုံးကျေနပ်နေသလိုလည်း ထင်ရသည်။

ထိုတွင် "အရှင်ဇနကာဘိဝံသကို မမြင်ဘူးလို့ပါ၊ ဖူးပါရစေ"ဆိုသော ရွာနီးချုပ်စပ်မှ ပုဂ္ဂိုလ်တို့သည်လည်း ရှိကြ၏၊ ထိုသူတို့သည် သရိုင်ကမ်းဘက်မှ နေ့လယ်စဉ်ကပင် လာ၍ တငံ့လင့်လင့် စောင့်နေကြသည်ဆို၏၊ နေဝင်၍ မှောင်ရီပျိုးသော်လည်း မပြန်ကြသေး၊ "ဖူးပြီးမှကို ပြန်မယ်"ဟု ဇွဲကောင်းနေကြ၏။

ဆရာတော်တို့ စီးလာသော လှေတို့မှာ ည ၇ နာရီမှပင် သရိုင်ကမ်းသို့ ကပ်လေ၏၊ စောစောက ပုဂ္ဂိုလ်တို့သည် သူတို့၏ဆန္ဒ မပြည့်ဝသေးသဖြင့် အားလုံးပင် ရှိကြသေးသည်။

"ဟော ကြွလာကြပြီ၊ အခုမှ ကမ်းကို ကပ်လာတယ်၊ ရှေ့ဆုံးကလှေမှာ ဆရာတော်"

ပရိသတ်အားလုံး လှုပ်လှုပ်ရွရွ ဖြစ်သွားကြပြန်၏၊ ကိုယ်စီကိုယ်ငှ စိတ်လှုပ်ရှားနေကြဟန်ရှိသည်။ အလုအယက် သူ့ထက်ငါ ရှေ့ကို တက်လာကြ၏၊ ဆရာတော် အနားကို ဝိုင်းအုံလာကြသည်၊ လပြည့်ကျော် ၃ ရက်ည၊ လဝန်းရောင်က မလာတတ်သေး၊

ညမှောင်မှောင် ကြယ်ရောင်တလေးများဖြင့် ရေးရေးတွင် အနီးကပ်၍ တိုးဝှေ့ ကြည့်ကြ၏၊ ဖူးမြော်ကန်တော့ကြ၏၊ ဩော်...သူတို့ မေတ္တာ, သူတို့ စေတနာ၊

"မေတ္တာရောင်ပြန်ဟပ်"ဆိုသည်မှာ အမှန်ပင်ဖြစ်ပါ၏၊ တကယ်မေတ္တာထား၍ တကယ်မေတ္တာပွားလျှင် အမှန်ပင် တုံ့ပြန်၍ အရောင်ဟပ်ပါသည်၊ ယခု ရောင်ပြန်ဟပ်ကြသည် မဟုတ်ပါလော။

ဆရာတော်ကမူ ပြုံးမြမြ ချိုမျက်နှာကြီးဖြင့် သူတို့၏ မေတ္တာ, သူတို့၏ စေတနာကို ပြန်၍ အသိအမှတ် ပြုနေပါသည်။

လှုပ်လှုပ်ရွရွ ကြိုဆိုကြသည့် ပရိသတ်ထဲမှ နှမအစ်မ ဒေါ်ကြီး ဒေါ်လေးတို့ကလည်း မျက်ရည်စမ်းစမ်းဖြင့် အငန်းမရ ရှေ့သို့မိုး၍ တိုးဝှေ့လာကြ၏၊ သူတို့ဘက်ကနေ ကြည့်လျှင် အနှစ်နှစ်အလလက တမ်းတမ်းတတ မျှော်လင့်ခဲ့ရသည် မဟုတ်ပါလော၊ လွမ်းဆွတ်မှုအစိုင်အခဲတို့ဖြင့် ရင်တွင်းမဆံ့ ငံ့လင့်ခဲ့ရသည် မဟုတ်ပါလော။

## ရွာရွှေရိုင်သို့ ရောက်ကြပြီ

ယနေ့ ညနေခရီးမှာ အကြမ်းဖျင်းအားဖြင့် ဝက်လက်မှ မြင်တော်သို့ ၁ မိုင်, အင်းရေပြင်ခရီးက အနောက်ဘက်ကမ်းမှ အရှေ့ဘက်ကမ်းအထိ ၂ မိုင်, အရှေ့ဘက်ကမ်းမှ သရိုင်ရွာအထိ ၁ မိုင်, ပေါင်း ၄ မိုင်ရှိသည်၊ နံနက်ပိုင်းက ကားခရီးဖြင့် လာခဲ့ကြ၍ လူသူများစွာ မသိလိုက်ကြသော်လည်း ညနေပိုင်းခရီးတွင်ကား လမ်းတစ်လျှောက်လုံး အုတ်အော်သောင်းတင်း သိမ့်သိမ့်တုန် ဖြစ်၍ သွားကြသည်။

သံဃာတော်များသည် မိမိတို့၏ ကျေးဇူးရှင်ဆရာတော်ဘုရား၏ မွေးရပ်ဌာနေ သရိုက်မြေကို ရောက်ချင်စမ်းပါဘိဟူ၍ တစ်ချိန်တုန်းက တမ်းတမ်းတတ ချင်ခြင်းဖြစ်ခဲ့သည်မှာ ယခုအခါမှ ပြေလည်ကြရတော့၏၊ စိတ်ဆန္ဒပြည့်ဝသဖြင့် ကိုယ်လက်တို့မှာလည်း ပေါ့ပါးကာ လန်းဆန်း၍ သွားကြရတော့သည်၊ နှစ်ပေါင်း ၃၀ ခန့်မျှဝေးကွာခဲ့ရသော မွေးဇာတိဌာနေ ရွှေရိုင်မြေသို့ တလေတစ်ခေါက် ပြန်လည်ရောက်ရှိလာခဲ့သော ဆရာတော်ရော ဘယ်လိုများနေမည်လဲ၊ သူ့ဝမ်းထဲမှ သူသိနိုင်ပါမည်၊ သို့ရာတွင် ယခုကဲ့သို့ အမှတ်တင်ထင် ခြေချ၍ ပြလိုက်ခြင်းသည် "အရှင်ဇနကာဘိဝံသဆိုတာ သရိုင်သား"ဟု အများက သိနိုင်အောင် ပြောသလိုလည်း ဖြစ်သွားတော့၏၊ သရိုင်ရွာ ပင်းကျောင်းကြီးတွင်ကား ဆရာတော် သံဃာတော်များ မလာခင်ကပင် သရိုင်ရွာမှ ရွာသူရွာသားများ, အနီးအနားရွာများမှ ဒကာဒကာမများဖြင့် ပြည့်ကြပ်စည်ကားနေနှင့်ကြသည်၊ သူတို့ရွာသား သူတို့နယ်သား "အရှင်ဇနကာဘိဝံသကိုလည်း မဝနိုင်အောင် ဝိုင်း၍ ကြည့်နေကြ၏၊ ဘကြီး ဘထွေး, ဦးကြီး ဦးလေး, ဒေါ်ကြီး ဒေါ်လေးတို့ကမူ သူတို့၏ မျက်စိတွင် "မယ်တော်ကာ" ရုပ်ပုံကို သွင်း၍များ ကြည့်နေကြမည်လား မသိနိုင်။



မြောင်းမြဆရာတော်ဘုရားကြီး သရိုင်ခရီး ကြွခဲ့စဉ်က

## မွေးမေ့ရှာ ဘာတွေ ဆောင်ရွက်ခဲ့ ဆွေတွေ မျိုးတွေ ဝိုင်းဝိုင်းလည်

မူလစီစဉ်ခဲ့တုန်းက အဦးဆုံးရောက်သော ပထမ ညတွင် သရိုင်ရွာ၌ သံဃာတော်များက မဟာ သမယသုတ်, မင်္ဂလသုတ်, မေတ္တသုတ် စသည်တို့ကို ရွတ်ဆိုဖို့ရန် ဖြစ်၏၊ သို့သော် အရောက်နောက်ကျ သွားသဖြင့် သံဃာများ ပင်ပန်းသောကြောင့် ရွတ် မည့် အစီအစဉ်များကို ဖျက်သိမ်းလိုက်ရသည်၊ ဖျက်သိမ်းလိုက်ရသည်ပင် သူတို့ ရွာသူရွာသားများ အဖို့ အခွင့်ကောင်း ဖြစ်သွား၏။

ထိုညတွင် နှစ်ပေါင်းများစွာ ကွဲကွာခဲ့ရသော သူတို့၏ရွာသား ဆရာတော် အရှင်ဇနကာဘိဝံသ တစ်ပါးကို အားမရနိုင်အောင် လာရောက် ဝိုင်းအုံ ဖူးမြော်ကြ, နှုတ်ဆက်ကြ, ကန်တော့ကြနှင့် ဆွေမျိုး တွေ ဝိုင်းဝိုင်းလည်နေကြ၏၊ ဆရာတော် အရှင် ဇနကာဘိဝံသကလည်း သူတို့၏ဆန္ဒကို လိုက်လျော ကာ လက်ခံ စကားပြောတော်မူနေရသည်။

သံဃာများအတွက် ပင်းကျောင်းကြီးပေါ်မှာ နေရာပေးထား၏၊ "ပင်းကျောင်းကြီး"ဟူသည် ဆရာ တော် အရှင်ဇနကာဘိဝံသ ကလေးဘဝက နေခဲ့ သော ကျောင်းအိုကြီးပင် ဖြစ်၏၊ တိုင်ပေါင်းပင် ၈၀ ရှိသည်၊ ကျယ်ဝန်းလှ၏၊ နှစ်ထပ်ဖြစ်သည်၊ အမိုး ဘုံဆင့်လည်း ပါ၏၊ သံဃာ ၁၀၀ လောက်အတွက် ချောင်ချောင်ကလေးသာ ဖြစ်သည်၊ သွပ်မိုး ပျဉ်ခင်း ပျဉ်ကာ ပွတ်လုံးဝရန်တာများနှင့် ရှေးခေတ်ပုံဟန် အတိုင်း ခံ့ညားလှ၏၊ ရှေးဆရာတော်ကြီးများ၏ ဘုန်းကံပင်တည်း။

ဆရာတော် အရှင်ဇနကာဘိဝံသက သီးသန့် ကျောင်းငယ်တစ်ဆောင်မှာ သီတင်းသုံးတော်မူ၏၊ ရွှေကျင်သာသနာပိုင် မြောင်းမြဆရာတော်ဘုရားကြီး အတွက်ကား သီးသန့် ယာယီထန်းရွက်တဲကျောင်း တစ်လုံးဆောက်လုပ်ပေးရသည်၊ ဆရာတော်ကြီး ပါမည်ဆိုကတည်းက ကြိုတင်ဆောက်လုပ်ထားနှင့် ရ၏၊ မြောင်းမြဆရာတော်ဘုရားကြီးမှာ ဟိုခရီး သည်ခရီး မလွှဲသာ၍ သွားရလျှင် ဤသို့ပင် ပြုလုပ် ပေးရတတ်၏၊ အလွယ်မရှိလျှင် ဇရပ်မှာပင် တည်းခို တတ်၏၊ သို့မဟုတ် သစ်ပင်အောက်မှာ နေတော်မူ တတ်သည်။

## ထန်းရွက်မိုး တဲကျောင်းဖြင့်

မြောင်းမြဆရာတော်ဘုရားကြီးက ဘာ့ကြောင့် ရှိပြီးကျောင်းများပေါ်တွင် မတည်းခို သီတင်းမသုံး သနည်း? ဤမေးခွန်းကို ဖြေရမည်မှာ အန္တရာယ် တွေ အလွန်များ၏၊ သို့သော်လည်း ဆရာတော် ဘုရားကြီး၏ သီလ, ဆရာတော်ဘုရားကြီး၏ စောင့် စည်းမှု, ဆရာတော်ဘုရားကြီး၏ သံသယကြီးမှုတို့ကို အများသိစေလို၍ ချွင်းချန်မထားဘဲ ဖြေရပါတော့ မည်၊ ဆရာတော်ဘုရားကြီးသည် ဝိနည်းနှင့်ပတ် သက်လာလျှင် အလွန် သံသယကြီးတော်မူတတ်၏၊ ဘုရားရှင်ကိုယ်တော်မြတ်ကလည်း "အဏုမတ္တေသု ဝဇ္ဇေသု ဘယဒဿာဝီ-အဏုမြူမှုန်လောက် အပြစ် ကလေးမျှကိုပင် ကြီးစွာသော အန္တရာယ်ကြီးဟူ၍ ရှုလေ့ရှိသူကို ချီးမွမ်းတော်မူ၏။

ထို့ကြောင့် ဆရာတော်ဘုရားကြီးက အပြစ်ဟူ သမျှ မြူမှုန်မျှ မသင့်ရအောင် ရှောင်တော်မူ၏၊ ထို့ပြင် မကြာ မကြာ မိန့်တတ်သည်မှာ...

"ဝိနည်းပညတ်တော်များ၌ ရဟန်းတစ်ပါးသည် ရွှေငွေရတနာကို ကိုယ်တိုင်လည်း မခံယူရ, ကပ္ပိယ စသည်တို့ကို ခံယူလိုက်ပါဟုလည်း မခိုင်းရ, အလှူ ရှင်တို့က အနီးအပါး၌ ချထား၍ လှူသည်ကိုလည်း စိတ်ဖြင့် မသာယာရ, နိသဂ္ဂိယပါစိတ်အာပတ်သင့် သည်ဟု ပညတ်တော်မူထားသည်၊ (ဝိနည်းပါဠိတော် ရူပိယသိက္ခာပုဒ်) ဤသိက္ခာပုဒ်တော်အတွက် အာပတ်သင့်သည့်အပြင် ခံယူမိသော ရွှေငွေကို လည်း စွန့်ပစ်ရသည်၊ ခံယူမိသော ရွှေငွေကို မစွန့် ပစ်ဘဲ ထားလျှင် ကိုင်တိုင်း ဒုက္ကဋ်အာပတ်သင့်၏။

ထိုရွှေငွေဖြင့် ခဲတံ စာအုပ်မှစ၍ ဆွမ်း သက်န်း ကျောင်း ဆေး စသည်တို့ကို ဝယ်ယူလျှင် ဝယ်သည့်အတွက် အာပတ်ထပ်၍ သင့်ပြန်၏၊ ထိုပစ္စည်းတို့ကို သုံးစွဲလျှင် သုံးတိုင်း သုံးတိုင်း အာပတ်တွေ ထပ်၍ ထပ်၍ သင့်ပြန်၏"ဟု မိန့်တော်မူလေ့ရှိ၏။

ထို့ကြောင့် မြောင်းမြဆရာတော်ကြီးက အခြားကျောင်းကို အာဂန္တု အဖြစ်ဖြင့် သွားရလျှင် သူစိတ်ချ ယုံကြည်သော ကျောင်းဖြစ်လျှင်သာ နေထိုင် တည်းခိုး၏၊ စိတ်ထဲ၌ သံသယဝင်သော ကျောင်းဖြစ်လျှင် (နိသဂ္ဂိရွှေငွေတို့ဖြင့် ရဟန်းကိုယ်တိုင် စီမံဆောက်လုပ်သောကျောင်းဟု ထင်လျှင်) ကျောင်းပေါ်သို့ မတက်, ကျောင်းရိပ်ကိုပင် မခိုဝင်တော့၊ ဇရပ်ရှိလျှင် ဇရပ်မှာ တည်းတတ်၏၊ တင်းကုပ်ရှိလျှင် တင်းကုပ်မှာပင် တည်းတတ်၏။

တစ်ခါက ခရီးသွားရင်း ပျော်ဘွယ်တွင် ညအိပ်ရဖို့ ကြုံလာ၏၊ အနီးအနားရှိ ဘုန်းကြီးကျောင်းများသို့ ပို့ပေးမည်ဆိုသည်ကို လက်မခံ၊ သူမတွေ့ဘူး မသိဘူးသဖြင့် စိတ်မချ။

ထို့ကြောင့် လမ်းဘေးက တင်းကုပ်ကြီးတစ်ခုထဲမှာပင် ဝင်၍ တည်းခို ညဥ့်အိပ်ဖူးကြောင်း "ဆရာတော်ကြီး၏ နောက်က ကပ္ပိယအဖြစ် ပါသွားသော ဒကာထိန်ဝင်းက ပြောပြဖူးသည်။

ဤမျှ သံသယကြီးတော်မူတတ်၍ ဆရာတော်ကြီးအတွက် စိတ်ချမ်းသာအောင် ယာယီထန်းရွက်မိုး, ရိုင်ကာ, ဝါးကြမ်းခင်း, အနိမ့်တဲကျောင်းကလေးတစ်ခု ဆောက်လုပ်ထားကြသည်၊ ထိုအခါ ဆရာတော်ကြီးမှာ တဲကျောင်းကလေးအတွင်း၌ အလွန်ကျေနပ်တော်မူနေဟန်ကို တွေ့ကြရပါသည်။

## စတုမဓူ စာကောင်းလို့လား?

မြောင်းမြဆရာတော်ကြီးကား ဝိနည်းနှင့် ပတ်သက်လာလျှင် ဤသို့ ဤနှယ်ပင် တင်းတော်မူခဲ့၏၊ ယနေ့ ညနေပိုင်းကပင် မြင်တော်ရွာ မဏ္ဍပ်၌ ဖြစ်ရပ်တစ်ခု ကြုံခဲ့ကြရသေး၏၊ ဒါယကာ ဒါယိကာမတို့က ခရီးပန်းလာသော သံဃာတော်များ ဘုဉ်းပေးဖို့ရန် စတုမဓူပန်းကန်များ ယူလာကြသည်၊ ဆရာတော်ကြီးက မေးတော့၏။

"ဘာလုပ်ကြမလို့လဲ, စတုမဓူတွေ မဟုတ်လား၊ စားကောင်းလို့လား"တဲ့ မေးတော်မူသည်။

သံဃာတော်များကား ခရီးပန်းလာကြသဖြင့် ဂေလညအကြောင်း, ဆာလောင်မွတ်သိပ်ခြင်းအကြောင်းတွေ ရှိနေပြီပဲ, စားထိုက်လောက်ပြီ"ဟု ထင်၍ ဘုဉ်းပေးကြတော့မည့်ဆဲဆဲ ဖြစ်နေကြ၏၊ သို့သော် ဆရာတော်ကြီး၏ မေးခွန်းစကားကြောင့် တစ်ပါးမျှ ဘုဉ်းမပေးဝံ့ကြတော့ပါ၊ ဆရာတော်ကြီးက ဆက်လက် မိန့်နေပြန်သေး၏။

"စတုမဓူဆိုပေမယ့် အချိန်မရွေး စားကောင်းတာ မဟုတ်ဘူး၊ ဒါ သတိရှိဖို့၊ တချို့က ရဟန်းတွေ ညနေ စားရတဲ့ အစာပဲ ဆိုပြီး စား စားနေကြတယ်၊ ဘယ်ဟုတ်မှာလဲ၊ ဒီစတုမဓူစားရင် ဒီရောဂါပျောက်မယ်ဆိုတဲ့ အကြောင်းရှိမှ စားကောင်းတာ, မရှိရင် မရဘူး"။

ဤသို့ မိန့်တော်မူသည့်အတွက် ..."ဘုဉ်းပေးကောင်းသည့် အချိန်မှာ ဘုဉ်းပေးရအောင်" ဆိုပြီး စတုမဓူအိုးကြီးကို သရိုင်ရွာသို့ အထိ လှူလိုက်ကြတော့သည်။

ဆရာတော် အရှင်ဇနကာဘိဝံသကလည်း... နောင်သောအခါ တပည့်တို့အား အမိန့်ထုတ်တော့၏။

"စတုမဓူကို လုံလောက်တဲ့ အကြောင်းမရှိဘဲနဲ့ ညနေ စားတာကို ဆရာတော်ကြီး မကြိုက်ဘူး, မစားကြနဲ့, စားလိုလျှင် ရေနွေးအဖျော်နဲ့ ဖျော်ပြီးမှ ဖျော်ရည်သဘောလို လုပ်ပြီးမှ သောက်ကြ" ဟူ၍ မိန့်တော့သည်။



ဆွေမျိုးတွေကြားမှ ဆရာတော် အရှင်ဇနကာဘိဝံသ

## ဆူးတုံးကြီးနဲ့ ဖက်ထူကြီး

အမှန်မှာ ဆရာတော်ကြီးက ဤသို့ တပည့်များနှင့် နီးနီးကပ်ကပ် လိုက်ပါ ကြွရောက် ချီးမြှောက်တော်မူနေခြင်းကား အကြောင်းမဲ့ မဟုတ်တန်ရာ၊ ဝိနည်းနှင့်စပ်၍ ဤကဲ့သို့ အသေးအဖွဲမျိုးကလေးက အစ လေးစားတတ်နေအောင် သတိပေးတော်မူလို၍ ဖြစ်ပေလိမ့်မည်။

အမရပူရ မဟာဂန္ဓာရုံသို့ ကြွ ကြွလာတတ်သော အခါများတွင်လည်း တစ်ခါတစ်ခါ ဤသဘောမျိုး မိန့်တတ်ပါ၏။

"ဝိနည်းဆိုတာ အသေးအဖွဲက အစ လေးစားရတယ်၊ ငယ်ငယ်အပြစ်လဲ အပြစ်ပဲ၊ သည်လို ငယ်ငယ် အပြစ်ကို လေးစားလေ့ မရှိဘူးဆိုရင် တစ်နေ့မှာ ကြီးကြီး အပြစ်ကိုလဲ သူ လွယ်လွယ်နဲ့ ကျူးလွန်မိတော့မှာပဲ။

နောက်တော့ တစ်တက်စားလဲ ကြက်သွန်၊ နှစ်တက်စားလဲ ကြက်သွန် မထူးတော့ပါဘူး ဖြစ်ကုန်ရော၊ ပွေပွကုန်ပြီ။

တစ်ခါတုန်းက ဒကာမတွေ တစ်စု ဥပုသ်စောင့်ရင်း စုပြီး စကား ပြောကြသတဲ့၊ အဲဟို ကျောင်းက ဘုန်းကြီးက ဘယ်သူနဲ့ ဘယ်သို့ ဘယ်ညာ ဘယ့်နှယ်ဟာလို့ ပြောတော့ အနီးက ဒကာမက တားတယ်။

"ဟဲ့-မပြောနဲ့၊ ဟိုတစ်ဖက်ကလဲ ဂုဏ်သိက္ခာထိတယ်၊ ဒီဖက်ကလဲ ဘုန်းကြီးဆိုတော့ ပြောရင်ကိုယ်ပဲ အပြစ်ကြီးတယ်၊ ဆူးနဲ့ ဖက်လိုပဲ၊ ဆူးပေါ် ဖက်ကျ-ဖက်ပေါက်၊ ဖက်ပေါ် ဆူးကျ-ဖက်ပေါက်"

"အံမယ်-အဲဒါကဖြင့် ပွေပွနေပြီ၊ ဆူးကလဲ ဆူးတုံးကြီး၊ ဖက်ကလဲ ဖက်ထူကြီး ဖြစ်နေပြီ၊ ပေါက်ပါ့မလား" လို့ ပြန်မေးသတဲ့။

တော်တော်ဟုတ်တဲ့ စကား၊ သူ့စကားဟာ အင်မတန်ထိတယ်၊ "ဆူးကလဲ ဆူးတုံးကြီး၊ ဖက်ကလဲ ဖက်ထူကြီး"။

ဆရာတော်ကြီး ဆိုလိုသည်မှာ "အပြစ်ဟူသမျှ သေးသေးမွှားမွှားကိုလည်း ဆင်ခြင်ရမှာပဲ၊ မဆင်ခြင်လျှင် ကြာတော့ ဆူးတုံးကြီးတွေ ဖြစ်ကုန်တတ်တယ်"ဟု ဆိုလိုရင်း ဖြစ်၏။

## ဂန္ဓာရုံလိုပင် ပုံသွင်မပျက်

နောက်တစ်နေ့ နံနက်စောစော ၄ နာရီတွင် (အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်ကဲ့သို့ပင်) ၂၄ ပစ္စည်းဆိုလျက် တုံးကြီးခေါက်၍ အိပ်ရာထကြ၏၊ ပြီးလျှင် မဟာဂန္ဓာရုံမှာလိုပင် ငြိမ်သက်စွာ မေတ္တာပွား၍ ဂုဏ်တော်များကို နှလုံးသွင်းကြ၏၊ နံနက် ၅ နာရီတွင် အရုဏ်တက်လာသောအခါ အချက်ပေး တုံးကလေးခေါက်၍ စေတီလှဘုရားဝင်းကြီးထဲက ဇရပ်ကြီးဆီသို့ ဆွမ်းခံကြွကြရ၏၊ ဂန္ဓာရုံမှာလိုပင် သံဃာတော်အားလုံး သက်န်းရုံ သပိတ်ပိုက်ကြ၍ စီတန်းကြပြီးလျှင် ဆွမ်းခံကြသည်။

ဒါယကာ ဒါယိကာမများက အားရဝမ်းသာ ဇရပ်ကြီးအခြေမှနေ၍ လောင်းလှူကြ၏၊ ပြီးလျှင် ဇရပ်ကြီးပေါ်၌ ဟင်းနှင့်တကွ အသင့်ပြင်ထားသော ဆွမ်းပွဲများ၌ တစ်ခုံလျှင် လေးပါးစီထိုင်ကာ သပိတ်ဖြင့် ဘုဉ်းပေးတော်မူကြ၏၊ သံဃာ ၁၀၀ မျှရှိသော်လည်း ဝှန်းသံ ပန်းကန်သံ မကြားရဘဲ ငြိမ်သက်စွာ ဘုဉ်းပေးနေကြသည်ကို ကြည်ညိုမဝ ဖြစ်ကြရ၏၊ ဌာနနေရာ ပြောင်းသော်လည်း ဂန္ဓာရုံစနစ်ကား မပြောင်းချေ၊ ဤဆွမ်းပွဲများ၌ သားကြီးငါးကြီးဟင်းများ မပါပါ၊ ဆရာတော်က စောစောကပင် ကြိုတင်၍ "သာမန်ငါးခြောက်တို့လိုမှတစ်ပါး သားစိုငါးစိုများ သားကြီး ငါးကြီးများ မကပ်ရ"ဟု မှာထားသည်၊ အကယ်၍ ခွင့်ပြုထားလျှင် ဤသံဃာ ၁၀၀ အတွက် အထူးစီစဉ်သည့်အနေဖြင့် သားကောင်များ သေကျေကြရတော့မည် မဟုတ်ပါလော၊ သို့ဖြစ်လျှင် လမ်းတစ်လျှောက်လုံး ပို့လာခဲ့သော မေတ္တာဆိုသည်နှင့် တစ်လမ်းစီ ဖြစ်တော့မည်၊ ထို့ကြောင့် တားမြစ်ထားခဲ့၏၊ သံဃာတော်များ ကြွလာခြင်းသည်ပင် ပတ်ဝန်းကျင် သတ္တဝါအားလုံးအပေါ်၌ မေတ္တာရေချမ်း သွန်းဖျန်းလို၍ မဟုတ်ပါလော။

ဒါယကာ ဒါယိကာမတို့ကလည်း ဆရာတော်၏စကားကို တစ်သဝေမတိမ်း လိုက်နာကြကာ ဟင်းများချက်ရာတွင် နွားနို့ခဲချက်, ဒိန်ခဲချက်, ကြွက်နဖားဟင်းချို, တောင်ပို့မှို, မျှစ်သုပ်, ပဲချက်, ပဲငံပြာရည် စသည်တို့ဖြင့် (သက်သတ်လွတ်ဖြစ်အောင်)ဖွယ်ဖွယ်ရာရာ စီမံပြီးလျှင် ကပ်လှူကြပါသည်။

ထို့ပြင်လည်း ဆရာတော်က မှာထားသေး၏၊ မုန့်များကိုလည်း မြို့က မုန့်တွေကို ဝယ်၍မကပ်ရ, တောမှာဖြစ်တဲ့ တောမုန့် တောစာကိုသာ ကပ်ရမည်"ဟု အမိန့်ထုတ်ထားသည်၊ ထို့ကြောင့် မုန့်ဖက်ထုပ်, မုန့်ဖောက်, မုန့် လုံးရေပေါ်, မုန့်ပျားသလက်, မုန့်ဆီကြော်, မုန့်ဖြူ, မုန့်နှီ, လက်ဖက်, ပဲခြမ်း, ငှက်ပျောသီး စသည်တို့ကိုသာ ကပ်လှူကြ၏၊ လေးစားမြတ်နိုးစရာ မူတစ်ခုပင် ဖြစ်တော့သည်။



သရိုင်ရွာစရောက် မြောင်းမြဆရာတော်ဘုရားကြီး

## မိဘကျေးဇူးသိတတ်သူမို့

နေ့ဆွမ်းချိန်တွင် ဆရာတော်၏ မိဘဘိုးဘွား တို့ကို ရည်စူး၍ (မိဘများ၏နေအိမ်၌) သံဃာတော် ၁၀ ပါးအား သံဃိကဆွမ်း, သံဃိကသင်္ကန်းလှူဒါန်း ဆက်ကပ်ကြ၏၊ ရှေးတုန်းကလည်း တစ်ခါ ပြုလုပ်စေဖူး၏၊ ယခုလည်း ဆရာတော်က ကိုယ်တော်တိုင် ရောက်လာခိုက်တွင် ပြုလုပ်စေခြင်း ဖြစ်သည်၊ ရေစက်ချသောအခါ (ဆရာတော်၏ကိုယ်စား) တူဖြစ်သူ မောင်အောင်ခန့်ကို **"ဣဒံ ဝေါ ဉာတီနံ ဟောတု၊ သုခိတာ ဟောန္တု ဉာတယော၊"** ဟု တိရောကုဍ္ဍသုတ်တွင် လာသည့်အတိုင်း ဆို၍ အမျှဝေစေ၏။

"ဤသံဃိကဆွမ်းဒါန, သင်္ကန်း ထီး ဖိနပ်ဒါနသည် ကွယ်လွန်ကြပြီးသော အဘ ဦးဇောတိ+အမိ ဒေါ်အုန်းလှိုင်တို့ကို အစပြု၍ ဆွေမျိုးများအတွက် ဖြစ်ပါစေသတည်း၊ ကွယ်လွန်ကြပြီးသော အဘ ဦးဇောတိ+အမိ ဒေါ်အုန်းလှိုင်တို့မှ စ၍ ဆွေမျိုးများသည် ချမ်းသာကြပါစေသတည်း"ဟု အဓိပ္ပာယ်ရ၏။

ဤကား မိဘတို့၏ လိုအင်ဆန္ဒငါးမျိုးတွင် တစ်ခု အပါအဝင်ဖြစ်သော ဆန္ဒကို ပြည့်ဝအောင် ဖြည့်တင်းလိုက်ခြင်း ဖြစ်ပေသည်၊ ရှင်တော်ဗုဒ္ဓက ဤသို့ ဟောမိန့်တော်မူထားသည်။

"အမြော်အမြင်ရှိသော မိဘတို့သည် သား သမီးကို ရလိုကြရာ၌ ရည်ရွယ်ချက်ငါးမျိုးရှိကြ၏၊ ဘာများလဲ ဆိုလျှင်...

၁။ အိမ်၌ရှိသော မိဘတို့၏ အလုပ်ကိစ္စကို ကူညီမည့်သူ ရဖို့၊
၂။ မိဘတို့ အိုမင်းရင့်ရော်လာလျှင် ပြုစုလုပ်ကျွေးမည့်သူ ရှိဖို့၊
၃။ အမွေခံ သား သမီး ကျန်ရစ်ဖို့၊
၄။ ကိုယ့်အမျိုးအစဉ်အဆက် မတိမ်ကောဖို့၊
၅။ မိဘတို့ ကွယ်လွန်လျှင် ကုသိုလ်ကောင်းမှုပြု၍ ကျိန်းသေ အမျှဝေရစ်မည့်သူ ရှိဖို့။ ... ဤ ရည်ရွယ်ချက် ငါးမျိုးပင် ဖြစ်ပေသည်။

ထိုတွင် ဆရာတော်က သားသမီးတို့ ပြုလုပ်ရမည့် နောက်ဆုံးအချက်ကို တာဝန်ကျေကျေ ဆောင်ရွက်တော်မူလိုက်ခြင်း ဖြစ်၏၊ ဤသည်ကား မိဘတို့ကို တန်ဖိုးထားသူ, မိဘတို့၏ ကျေးဇူးတရားကို သိတတ်သူတို့၏ ကျင့်ဝတ်သာတည်း။

> **"ကျွေးမွေးမပျက်, ဆောင်ရွက်စိမံ,**
> **မွေခံထိုက်စေ, လှူမျှဝေ၍,**
> **စောင့်လေမျိုးနွယ်, ဝတ်ငါးသွယ်,**
> **ကျင့်ပွယ် သား(သမီး)တို့ဘာ"**။

## အမိ အဖဆိုလျှင် ရှေ့တမ်းတင်ရစမြဲ

### အဘယာရာမဆရာတော်၏ ခံယူချက်

ဤကဲ့သို့ အမိ အဖတို့ကို အရေးပေးရာ၌ ဆရာတော် အရှင်ဇနကာဘိဝံသသည် ပိဋကတ်တော်မှ ရသောအသိများနှင့် ဆရာသမားတို့၏ အပြုအမူကို အတုယူသည်ဟုပင် ဆိုရချေမည်၊ ဆရာတော်၏ နောက်ဆုံးဆရာ အဘယာရာမဆရာတော်သည် သာသနာတော်တွင် နေလို လလို ကျော်စော ထင်ရှားတော်မူ၏။

ဆရာတော်သည် နိကာယ်ငါးရပ် ပိဋကတ်ပင်လယ်ကို လှည့်လည်မွှေနှောက်, ကမ်းခတ်အောင် တတ်မြောက်တော်မူသည့်ပြင် ဘာသန္တရသက္ကတတို့၌လည်း သူမတူအောင် တတ်မြောက်, ခေါင်ထိပ်သို့ ရောက်တော်မူသောကြောင့် မြန်မာပြည်တွင်သာမက သီရိလင်္ကာ (သီဟိုဠ်), ထိုင်း (ယိုးဒယား), ကမ္ဘောဒီးယား, လော (လာအို)စသော နိုင်ငံတို့၌ပါ ကျော်ကြားတော်မူ၏၊ ဟောရေး ပြောရေး လူမှုရေးစသည်တို့၌ကား စိတ်မဝင်စား, ပိဋကတ်တော်များ၌သာ အချိန်ပြည့် စိတ်ကို နှစ်ထားတော်မူလေ့ရှိသည်။

---

* စုဒ္ဒကပါဠိ (တိရောကုဍ္ဍသုတ်)

## သားသမီးဝတ် ကျေပွန်ပါမှ

သို့ရာတွင် ဖခင်ကြီး နာမကျန်း၍ လာရောက်ပင့်ခေါ်သောအခါ မွေးဖွားရာဇာတိ မြင်းခြံမြို့နယ်က "ဗလုံရွာ"သို့ လိုက်ပါကြွရောက်ပြီးလျှင် ဖခင်ကြီး၏ အိပ်ရာအနီး၌ အချိန်ပြည့် နေထိုင်ကာ စောင့်ရှောက်တော်မူပါသတတ်။

ဖခင်ကြီးမှာလည်း ကျောင်းဒါယကာကြီး ဖြစ်သည့်အားလျော်စွာ ကျောင်းတိုက်တာအတွင်းက ဇရပ်တစ်ခုပေါ်၌ သား ရဟန်းတော်၏ အပြုအစု အယုအယကို တစ်လခန့်မျှ ခံယူကာ အနိစ္စ၏ အလိုသို့ လိုက်ပါသွားခဲ့ရသည် ဟူ၏၊ ထိုအခါတွင်လည်း အပိုအဆာမချဲ့ အကျဉ်းချုံးကာ ဆုံးခန်းအထိ ဦးစီး ကြပ်မတ်ဆောင်ရွက်တော်မူသွားခဲ့သည် ဟူသတတ်။

ဤသို့လျှင် ဆရာသခင် အရှင်မြတ်တို့သည်လည်း မိခင် ဖခင်နှင့် ပတ်သက်လာပါက ကျကျနန ပီပီပြင်ပြင် ရှေ့တန်းတင်၍ အရေးပေးတော်မူခဲ့ကြသည်၊ သားသမီးဝတ် ကျေပွန်အောင် ဆောင်ရွက်ခြင်းပင် ဖြစ်၏။

## အလောင်းတော်ဘဝတွေတုန်းကပင်

စင်စစ်ကား ဤဆရာတော်များသည် အမိအဖတို့ အပေါ်၌ ဤမျှလောက် အရေးပေး၍ ရှေ့တန်းတင်ကြသည်မှာ ခိုင်မာသော အကြောင်းသာကေနှင့် အဖဘုရားရှင်ကိုပင် အတုယူကြသည်ဟု ဆိုရမည် ဖြစ်၏။

ငါးရာ့ငါးဆယ်ဇာတ်တော်များ၌ ရှေးဖြစ်ဟောင်းတို့ကို ပြန်ပြောင်းဟောပြရာတွင် ဘုရားအလောင်းဘဝဖြစ်စဉ်က မိဘများကို ဦးစားပေး၍ လုပ်ကျွေးခဲ့ပုံတို့ကို အထူးဟောပြတော်မူ၏။

သုဝဏ္ဏသာမဇာတ်, နန္ဒိယမျောက်မင်းညီနောင်ဇာတ်, ကေဒါရကျေးမင်းဇာတ်, မာတုပေါသကဆင်မင်းဇာတ်, သောဏပဏ္ဍိတရသေ့ညီနောင်ဇာတ် စသည်တို့ဖြင့် များစွာ ဟောပြထားတော်မူ၏၊ သဗ္ဗညုတဉာဏ်ရ၍ ဘုရားဖြစ်တော်မူလာသောအခါတွင်လည်း မိဘတို့အား ပြုစုလုပ်ကျွေးသည်ကို အထူးမိန့်ဆိုချီးမွမ်းတော်မူသည်။

## ရှင်တော်ဗုဒ္ဓ စံပြပြုမှု

သုံးလောကထိပ်တင် အကျွန်ုပ်တို့၏ အဖဘုရားရှင်ကိုယ်တော်မြတ် ၅ ဝါရ (သက်တော် ၄၀ ရှိ) ချိန်က ဖြစ်၏၊ ခမည်းတော် သုဒ္ဓေါဒနမင်းကြီးမှာ သက်တော် ၉၇ ကျော်ပြီဖြစ်၍ လူကြီးရောဂါဖြင့် ညောင်စောင်းပေါ်၌ လဲလျောင်းနေပျော့ အားအင်များ လျော့လျက် ရှိချေပြီ၊ တစ်ကိုယ်လုံးလည်း နာကျင်ကိုက်ခဲလျက် ရှိချေပြီ၊ မင်းကြီးက သားတော်ဘုရားကို မျှော်မှန်း၍ ရော်ရမ်းတမ်းတခဲ့သည်၊ "ငါ့သားတော်ကြီးနှင့်တကွ သားတော်ငယ်များ, မြေးများ ရောက်လာကြလျှင် ကောင်းလေစွ"ဟူ၍ ဖြစ်သတည်း။

ဤကား သံယောဇဉ်ဖြင့် တွယ်တာသော မိဘတိုင်း၏ "ချင်ခြင်း"ပင် ဖြစ်သည်၊ ဤသို့ တမ်းတသည်ကို ဘုရားရှင်သိ၍ နောက်ပါ ရဟန်းငါးရာနှင့်အတူ ကြွလာတော်မူ၏၊ မိဘတို့အပေါ် အရေးပေးရာတွင် စံပြအဖြစ် မြင်နိုင်ပေသည်။

## သစ္စာအသီးသီး ဆိုကြ၍

နန်းတော်သို့ရောက်လျှင် မြတ်စွာဘုရားက မင်းကြီး၏ ဦးခေါင်းဘက်မှနေ၍ "ငါသည် ခပ်သိမ်းသော သတ္တဝါတို့၏ အကျိုးငှာ လေးအသင်္ချေနှင့် ကမ္ဘာတစ်သိန်းကာလပတ်လုံး ပါရမီသုံးဆယ်တို့ကို ဖြည့်ကျင့်၍ စရိယသုံးဖြာတို့ကို ကျင့်ဆောင်ပြီး စွန့်ခြင်းကြီး ငါးပါးတို့ကို စွန့်လွှတ်၍ ဘုရားဖြစ်ခဲ့ရပြီ၊ ဤစကားမှန်လျှင် ငါ့ခမည်းတော်ကြီး၏ ဦးခေါင်းနာကျင်မှုများပျောက်ကင်းစေသတည်း"ဟု သစ္စာဆိုပြီး မင်းကြီး၏ ဦးခေါင်းကို လက်ယာလက်တော်ဖြင့် သုံးသပ်တော်မူရာ ထိုခဏ၌ပင် ဦးခေါင်းနာကျင်မှုများ ငြိမ်းအေးသွားကြလေသည်။ ထို့နောက် အရှင်အာနန္ဒာက "အကျွန်ုပ်သည် မြတ်စွာဘုရား၏ နောက်တော်ပါးမှ ဖဝါးထပ်ချပ် အရိပ်ပမာ အမြဲလိုက်ပါလျက် ရှိ၏၊ ဤစကားမှန်ကန်လျှင် အကျွန်ုပ်၏ ဘကြီးတော်မင်းတရားကြီး၏ လက်ယာ လက်မောင်းမှ နာကျင်မှုများ ပျောက်ကင်းစေသတည်း"ဟု သစ္စာဆို၍ လက်ယာလက်ဖြင့် သုံးသပ်လိုက်ရာ ချက်ချင်း ပျောက်ကင်းကုန်ကြတော့၏။

## မင်းဝတ်တန်ဆာဖြင့် ရဟန္တာဖြစ်

ထို့နောက်တစ်ဖန် နန္ဒအရှင်သူမြတ်က"အကျွန်ုပ်သည် နောင်တော်ဘုရား၏ စကားကို လိုက်နာ၍ အာသဝေါကုန်ခန်း ရဟန္တာဖြစ်ရပါသည်၊ ဤစကားမှန်လျှင် ဖခင်မင်းတရား၏ လက်ဝဲလက်မောင်း နာကျင်မှုများ ပျောက်ကင်းစေသတည်း"ဟု သစ္စာဆို၍ လက်ယာလက်ဖြင့် သုံးသပ်ရာ ချက်ချင်း ပျောက်ကင်းကုန်ကြပြန်၏။

ထို့နောက် အရှင်ရာဟုလာကလေးက သစ္စာဆိုပြန်သည်၊ "ဖခင်မြတ်စွာဘုရား ဝေဿန္တရာမင်းကြီးဘဝတုန်းက ကျွန်ုပ်ကို ဇူဇကာပုဏ္ဏားအား လှူဒါန်းစဉ် ကျွန်ုပ်စိတ်မဆိုးဘဲ ဖခင်၏ ပါရမီမြောက်အောင် လိုက်လျောခဲ့ပါသည်၊ ဤစကားမှန်လျှင် ကျွန်ုပ်အဘိုး၏ ကျောက်ကုန်း ဝမ်းဗိုက် ပေါင် ခြေသလုံးဖျား အားလုံးသော နာကျင်မှုများ ငြိမ်းစေသတည်း" ဟု သစ္စာဓိဋ္ဌာန်၍ သုံးသပ်လိုက်ရာ အားလုံးချမ်းသာရာ ရလေ၏။

ထို့နောက် မြတ်စွာဘုရားက ခမည်းတော်ကြီး တရားထူး ရနိုင်/မရနိုင်ကို ဆင်ခြင်တော်မူပြီးလျှင် တရားထူး ရနိုင်မည်ကို မြင်တော်မူသောကြောင့် တရားဟောသဖြင့် သုဒ္ဓေါဒနမင်းကြီး ထီးဖြူအောက်မှာ မင်းဝတ်တန်ဆာတို့ဖြင့် ရဟန္တာဖြစ်ကာ ပရိနိဗ္ဗာန်ပြုခွင့် တောင်းလေသည်။

## ကျေးဇူးကြီးမားကြပုံကို ပြလို၍

ခမည်းတော်ကြီး ပရိနိဗ္ဗာန်ပြုသောအခါ ဘုရားရှင်ကိုယ်တော်မြတ်က အရှင်မဟာကဿပအား သင်္ဂြိုဟ်ဖို့နေရာကို စီမံရန် မြွက်တော်မူ၏၊ အရှင်မဟာကဿပကလည်း သင့်မြတ်ရာဒေသကို စီမံတော်မူနေရသည်၊ ဘုရားရှင်ကိုယ်တော်မြတ်ကား ခမည်းတော်၏ ဦးခေါင်းကို ကိုယ်တော်တိုင် ချီမ၍ အရှင်သာရိပုတ္တရာနှင့်အတူတကွ ရေချိုးပေးတော်မူ၏၊ ညောင်စောင်းခုတင်ကိုလည်း သန့်ရှင်းစွာ အသင့်ပြင်ဆင်ထားစေတော်မူပြီးလျှင် အလောင်းတော်ကို ကိုယ်တော်တိုင် တင်တော်မူ၏။

အရှင်အာနန္ဒာ, အရှင်နန္ဒ, အရှင်ရာဟုလာနှင့် သံဃာတော်များက ဝိုင်းဝန်း၍ အကူအညီပေးကြရသည်။

သင်္ဂြိုဟ်ရန် အချိန်ရောက်သောအခါ သာကီဝင်မင်းသားတို့က မင်းကြီး၏ အလောင်းတော်ထားရာ ညောင်စောင်းကို ရွှေထမ်းစင်ဖြင့် ထမ်း၍ သယ်ကြရကုန်၏၊ မောင်းမမိဿံ အခြွေအရံတို့လည်း သုသာန်သို့ လိုက်ပါလာကြသည်၊ ဘုရားရှင်လည်း ရဟန်းငါးရာနှင့်အတူ လိုက်ပါကြွလာတော်မူ၏။

မီးသင်္ဂြိုဟ်မည့်နေရာတွင် ဘုရားရှင်ကိုယ်တော်တိုင် ခမည်းတော်၏ အိပ်ရာညောင်စောင်းကို ဖေးမချီမြောက်၍ (အများ၏ အကူအညီဖြင့် ပင့်၍) ထင်းပုံပေါ်သို့ တင်တော်မူသည်၊ ထို့နောက် ကိုယ်တော်တိုင်ပင် စတင်၍ အလောင်းစင်ထင်းပုံကို မီးတို့တော်မူ၏၊ သာကီဝင်မင်းသား အခြားသူတို့ကိုလည်း ရှို့စေတော်မူ၏၊ ဤသို့လျှင် ခမည်းတော်၏ ဈာပနကို ကိုယ်တော်တိုင် ကြပ်မတ်၍ စီစဉ်ဆောင်ရွက်တော်မူသတည်း။

ဤကဲ့သို့ အမိ အဖတို့၏ ကိစ္စကို ကြောင့်ကြောင့်ကြကြ ကိုယ်တော်တိုင် ဆောင်ရွက်၍ ပြသည်မှာ လောက၌ အဘယ်မျှလောက် အမိ အဖတို့ ကျေးဇူးကြီးမားသည်ကို သိစေတော်မူလို၍ပေတည်း။

## ကြွေးမကျေနိုင်သူနှစ်ဦး

ဤသို့လျှင် ဘုရားရှင်ကိုယ်တော်မြတ်သည် မိဘတို့နှင့်ပတ်သက်လာလျှင် ကိုယ်တော်တိုင်ပင် အရေးပေး ရှေ့တန်းတင်ကာ နမူနာပြတော်မူခဲ့၏ ထိုမျှမက မိဘအတွက်ဆိုလျှင် ရဟန်းတို့အား ချွင်းချက်ထား၍ အထူးခွင့်ပြုထားသော အရာများလည်း ရှိသေး၏၊ အဘယ့်ကြောင့်ဆိုသော် အမိအဖတို့ဟူသည် သားသမီးများအပေါ်၌ ကျေးဇူးအလွန်ကြီးမားသောကြောင့်ပင် ဖြစ်သတည်း။

*တစ်ခါကမူ မြတ်စွာဘုရားက ("ဒွိန္နာဟံ ဘိက္ခဝေ န သုပ္ပတိကာရံ ဝဒါမိ၊ ကတမေသံ ဒွိန္နံ? မာတာ စ ပိတု စ" "ရဟန်းတို့, ကျေးဇူးတုံ့ပြန်ဆပ်၍ မကျေနိုင်သောပုဂ္ဂိုလ် နှစ်ယောက် ရှိ၏၊ ထိုပုဂ္ဂိုလ်တို့အား လွယ်လွယ်နှင့် ကျေးဇူးတုံ့ပြန်ဆပ်၍ ကျေသည်ဟု ငါးဘုရားမဟောနိုင်၊ မည်သူတွေနည်းဆိုလျှင် မွေးသည့် မိခင်ကျေးဇူးရှင်နှင့် မွေးသည့်ဖခင် ကျေးဇူးရှင်တို့ ဖြစ်ကြ၏" ဟူ၍ပင် ဟောတော်မူထားပါသည်။

---

* အံ ၁ ၊ ၃၁ - ၆၃။

## ကျေးဇူးဂုဏ်ဆိုင် မကုန်နိုင်ဘူး

ထို့ပြင် ဥပမာ မိန့်တော်မူသေး၏၊ "မိခင် ဖခင်ကို ပခုံးတစ်ဖက်စီမှာ တင်၍ အနှစ်တစ်ရာပတ်လုံး ပခုံးပေါ်မှာပင် ကျွေးမွေး, ရေမိုးချိုး, နင်းနှိပ်ပေး, ပခုံးပေါ်မှာပင် အိပ်စေ၍ ပခုံးပေါ်မှာပင် ကျင်ကြီးကျင်ငယ်စွန့်စေပြီးလျှင် အနှစ်တစ်ရာပတ်လုံး ပြုစုလုပ်ကျွေးသည်ကိုပင် ကျေးဇူးတွေ ဆပ်၍ ကျေပြီဟု ငါဘုရား မဆိုနိုင်သေး"ဟု မိန့်တော်မူထား၏။

အဘယ့်ကြောင့်ဆိုသော် အမိ အဖတို့ဟူသည် သား သမီးများအပေါ်၌ မေတ္တာအလွန်ကြီးမားသောကြောင့်, ကျေးဇူးအလွန်ကြီးမားသောကြောင့်, သားသမီးတို့ ကြီးပွားအောင် စောင့်ရှောက်တတ်သောကြောင့်, သားသမီးတို့အား နို့ချိုတိုက်ကျွေး ထမင်းအဖျော်တို့ကို ပေး၍ ကျွေးမွေးပြုစု ယုယတတ်သောကြောင့် ဟူ၍ ဖြစ်၏၊ ထို့ကြောင့်ပင် ကျေးဇူးဆပ်၍ မကုန်နိုင်ဟု ဟောတော်မူခြင်း ဖြစ်သည်။

**လူ့ဘုံဌာန, ဤလောကဥ္စ,**
**ဘကို လက်ယာ, မိမှာ လက်ဝဲ,**
**ကိုင်ခွဲချီလျက်, ပခုံးထက်ဝယ်,**
**အသက်ရာတိုင်, မမုန်းနိုင်ဘဲ,**
**ဆုံးတိုင်လုပ်ကျွေး, ပြုစုမွေးလည်း,**
**ကျေးဇူးဂုဏ်ဆိုင်, မကုန်နိုင်ဘူး။**

## အသက်ဝင်လျက် ခေတ်မီလျက်ပင်

သရိုင်ရွာသို့ သံဃာ ၁၀၀ နှင့် ဆရာတော်အရှင်ဇနကာဘိဝံသ ရောက်လာချိန်မှစ၍ ရွာနှင့်ကျောင်းသို့ ကူးသန်းသွားလာနေကြသော ဒါယကာ ဒါယိကာမများ ပြတ်သည်ဟူ၍ မရှိ၊ အနီးဝန်းကျင်ရွာတို့မှလည်း လာရောက်ကြ၍ သေဝပ်ငြိမ်သက်သော သံဃာတော်များကို ဖူး၍ မဝ, ကြည်ညို၍ မဝ ဖြစ်နေကြတော့၏။

ရှေးတုန်းက သံဃာ ၁၀၀ လုံး တစ်ပြိုင်နက် ဆွမ်းမကပ်ဘူး၍ ယခု သံဃာ ၁၀၀ လုံးကို တစ်ဦးတည်း ဆွမ်းကပ်လိုသူများ ပေါ်လာကြ၏၊ တောင်းဆိုကြ၏ဟု ဆိုသည်၊ သို့သော် အများက ခွင့်မပြုနိုင်သဖြင့် ကိုယ့်ရွာနှင့်ကိုယ် စုပေါင်း၍သာ အလှည့်ကျ ကပ်ကြရ၏၊ ကပ်လိုသော အနီးအနားရွာတို့ကလည်း သရိုင်ရွာသို့ လာ၍ ရွာဦးဇရပ်ကြီးတွင် ချက်ကြ ပြုတ်ကြ ကပ်လှူကြရ၏၊ ပြုပြင်ထားသဖြင့် ငြိမ်သက်တည်ကြည်နေသော သံဃာတော်များကို သူတို့ အနေဖြင့် ကြည်ညို၍ မဝ, လှူဒါန်း၍ အားမရ ဖြစ်ကြရသည်။

ဝိနည်းပါဠိတော်ကြီးများ၌ တွေ့ရသည်မှာ ရဟန်း တစ်ပါးပါးက မသင့်မတော် ပြုမိလျှင် ဘုရားရှင် ကိုယ်တော်မြတ်က ခေါ်တော်မူ၍ အပြစ်တင်တော်မူ၏၊ "သင်၏ အပြုအမူသည် "အပ္ပသန္နာနံ ပသာဒါယ" မကြည်ညိုသေးတဲ့သူတွေ ကြည်ညိုလာဖို့ မဖြစ်နိုင်ဘူး၊ "ပသန္နာနံ ဘိယျောဘာဝါယ" ကြည်ညိုပြီးသား သူတွေလည်း တိုး၍ ကြည်ညိုလာဖို့ မဖြစ်နိုင်ဘူး"ဟူ၍ အပြစ်တင်တော်မူပြီးလျှင် "မှန်မှန်ကန်ကန် ကျင့်ကြံနေထိုင်မှသာလျှင် မကြည်ညိုသေးတဲ့သူတွေ ကြည်ညိုလာမယ်၊ ကြည်ညိုပြီးသားသူတွေလည်း တိုး၍ ကြည်ညိုလာမယ်"ဟူ၍ ညွှန်ပြလေ့ ဆုံးမလေ့ ရှိပါသည်၊ ဤစကားတော်ကို ဝိနည်းပါဠိတော်ကြီးများ သင်ကြားရစဉ်က ခဏခဏ တွေ့ရ၏။

ယခုလို အခါမျိုးတွင် ပို၍ပင် ဘုရားရှင်ကိုယ်တော်မြတ်ကြီးကို သတိရမိပါသည်၊ "ဘုရားရှင်ကိုယ်တော်မြတ်ကြီး၏ စကားတော်သည် "ဟုတ်မှန်ပါပေစွ"ဟု ရေရွတ်၍လည်း ဦးတင်မိ၏၊ အတွင်းစာရိတ္တ ကိုယ်ကျင့်သီလကို မသိရသေးဘဲလျက် အပေါ်ယံ အနေအထိုင် ငြိမ်သက် တည်ကြည်ယုံမျှဖြင့် ဒါယကာ ဒါယိကာမတို့မှာ ဖူး၍ မဝ, ကြည်ညို၍ အားမရ ဖြစ်ကြရပါသည်။

ဘုရားရှင်ကိုယ်တော်မြတ်ကြီး၏ ဝိနည်းတရားတော်သည် နှစ်ပေါင်း ၂၅၀၀ ကျော်လာသော ယနေ့တိုင်အောင်ပင် အသက်ဝင်လျက် ခေတ်မီလျက် ရှိပါသေးသည်တကား။

## ဆွေတရား မျိုးတရား ဟောမြွက်ကြား

ဒုတိယညတွင် သရိုင်ရွာလယ်ခေါင်က အစိုးရမူလတန်းကျောင်းဝင်းကြီးထဲ "ဆရာတော်ငယ်ငယ်က နေထိုင်ခဲ့ဖူးသော အိမ်နေရာ"မှာ တရားပွဲကြီး ကျင်းပ၏၊ ဦးစွာ ပထမ သံဃာ ၁၀၀ က ရတနသုတ်ပရိတ်တော်များ ရွတ်၍ ဆရာတော်က အမိဟ္မာယ်ပြောပြီး "ဆွေတရား မျိုးတရား"ဟောကြားတော်မူသည်၊ တရားဟောကြားတော်မူသည်ဆိုသော်လည်း ဓမ္မကထိကဟန်မျိုး အသံနေ အသံထားဖြင့် ဟောကြားနေသည်မဟုတ်ပါ၊ ဆရာတော်အနေနှင့် ဆွေမျိုးတွေအလယ်မှာ အေးအေး ဆေးဆေး ဩဝါဒပေးခြင်းမျှသာ ဖြစ်၏။

ဆွေမျိုးတွေဟူရာ၌ သရိုင်တစ်ရွာတည်းသာမက ပတ်ဝန်းကျင် ဆွေမကင်း မျိုးမကင်း ဖြစ်ကြသည့် ခင်မင်, စမွန်း, ညောင်ပင်တွင်း, အင်ကြင်းပင်, မင်းရွာ, မင်းကုန်း, ဝမ်းဘဲကုန်း, မိညိုကုန်း, ထန်းကြီးကုန်း, အလယ်ကုန်း, မုက်ထိ, ဆားတောင်ကြီး စသည်တို့ကိုပါ ဆိုလို၏၊ ထိုဆွေမျိုးတွေရွာကလည်း လာကြ၏၊ ဆွေမျိုးတွေ တော်တော်စုံသဖြင့် အလွန်ကျယ်ဝန်းသော ကျောင်းဝင်းကြီးတစ်ခုလုံး ပြည့်လျှံအန်ထွက်သွားတော့သည်၊ "ပုဂ္ဂိုလ်ခင်မှ တရားမင်" ဆိုသောစကားသည် မှန်၏၊ ယခု ဆရာတော် အရှင်ဇနကာဘိဝံသကို သူတို့အဖို့ မြတ်နိုးဖွယ်ပင် ဖြစ်သည်၊ တန်ဖိုးရှိသည်၊ လေးနက်သည်။

ထို့ကြောင့် ထိုနေ့ညက ပရိသတ်ကြီးသည် အလွန်များပြားသလောက် ငြိမ်သက်စွာ နာယူနေကြသည်၊ ဆရာတော်၏ စကားလုံးများ လွတ်သွားမည်ကို စိုးရိမ်ကြဟန်မျိုး ဖြစ်၏၊ စကားလုံးတိုင်းကို ဝါဂွမ်းဖြင့် လိုက်၍ ခံယူမည်ကဲ့သို့ လေးစားကြသည်၊ ဤသို့လျှင် ငြိမ်သက်သော သံဃာ့ပရိသတ်နှင့် ငြိမ်သက်သော တရားနာပရိသတ် ဟပ်လှပါဘိသည်။

ဤသို့ဖြင့် ဩဝါဒစကားများ နာ၍ မဝသေးမီပင် အချိန်စေ့၍ ထိုနေ့ည တရားပွဲ ရုပ်သိမ်းသွားရလေသည်။

## လူ့သာခုခေါ် နတ်သာခုခေါ်

နောက်တစ်နေ့ တတိယနေ့ညတွင် ဘုရားစေတီဝင်းကြီးများ၏ အလယ်မှာ တည်ရှိသော နှမနှင့်အစ်မတို့၏ ဇရပ်ကြီးပေါ်မှာ တရားပွဲ ကျင်းပကြ၏၊ ထုံးစံအတိုင်း သံဃာတော်များက ပရိတ်ရွတ်၍ အပြီးတွင် ဆရာတော်က ဆက်လက်၍ ဩဝါဒပေးတော်မူသည်၊ သံဃာတော် ၁၀၀ ပါး၏ ထုထည်အင်အားဖြင့် ညီညီညာညာ ရွတ်သော ပရိတ်တန်ခိုး, ပို့သသော မေတ္တာဓာတ်တို့သည်လည်း အရှိန်အဝါ အလွန်ကြီးမားပါလိမ့်မည်၊ ဤနေ့ ညတွင်လည်း ယခင်နေ့ ညကလိုပင် ပရိသတ်တွေ များလှ၏၊ စင်စစ်ကား မမြင်နိုင်စကောင်း၍သာ မမြင်ရခြင်း ဖြစ်ပေမည်၊ ဤကဲ့သို့သော တရားပွဲမျိုးတွင် လူပရိသတ်တို့သာမက တရားနာလိုကြသော နတ်ပရိသတ်တို့ပါ လာကြမည်ဟု ထင်ရသည်။

ဆရာတော်သည် မိမိ ဩဝါဒများကို ပရိသတ်က လေးစားမှန်း သိလေ, အားတက်လာလေ ဖြစ်၏၊ ဆွေမျိုးတို့၏ အလယ်တွင် သိဖွယ်ဟူသမျှ ချွင်းချန်မထားဘဲ ရင်ထဲ နှလုံးထဲမှ ထုတ်ဖော်ကာ ဟောပြနေတော်မူ၏၊ ပရိသတ်ကလည်း ခေါင်းတညိတ်ညိတ်ဖြင့် နှစ်သိမ့်ကြည်ဖြူ နာယူနေကြသည်၊ ယခုအခါ ဆရာတော်က တရားမိုးကြီး သွန်းဖြိုးရွာချနေသည်ဟုပင် ဆိုထိုက်ပေတော့၏၊ သို့သော် သရိုင်နယ်တစ်ဝိုက်တွင်သာ ကွက်၍ ရွာသော "ပေါက္ခရဝဿံ-တရားမိုး"ဟု ဆိုရလေမည်လော၊ ဟောသမျှ သဘောကျ၍ နှလုံးအေး ရင်အေး ဖြစ်ကြရသည်ဟု ဆိုသည်။

တရားပွဲကြီး အပြီးတွင်ကား များစွာသော ပရိသတ်ထု၏ ကောင်းချီးမြွက်သံ ဘဝက်လျှံမျှ သာခုသံ လှိုင်းလုံးကြီး လိမ့်သဖြင့် တသိမ့်သိမ့် တုန်သွားတော့သတည်း။

ထိုအထဲတွင် နတ်တို့၏ သာခုသံလည်း ဧကန်ပါမည်သာတည်း။

## အချိန်တိုင်းမှာ အလုပ်တစ်ခုခုပြီးမှ

ဤသို့လျှင် မွေးမေ့ရွာသို့ ရောက်တုန်း ရောက်ခိုက် ဆရာတော်နှင့် သံဃာတော်များမှာ အေးအေးသက်သာ အနားယူသည် မရှိဘဲ ဆရာတော်က တရားဟောပြ ဩဝါဒပေးခြင်း, သံဃာတော်များက ရပ်ကွက်များတွင် ပရိတ်တရား ချီးမြှင့်ပေးရခြင်းတို့ဖြင့် မအားလပ်အောင် ဆောင်ရွက်ပေးတော်မူကြသည်၊ အစီအစဉ်အရ သရိုင်တွင် နေမည့်ရက်က ၃ ရက်မျှသာ ရှိသဖြင့် ဆွမ်းဘောဇဉ်အာဟာရ ဆက်ကပ်လိုသူများ ရက်မရကြပေ။

ထို့ကြောင့် အချို့က ဆွမ်းဆန်စိမ်းများ လောင်းလှူရသည်၊ ထိုရပ်ကွက် ထိုအိမ်များသို့ သံဃာတော်များက ကြွ၍ ပရိတ်ရွတ်ပေးတော်မူကြ၏၊ ဤသို့လည်း လှူဒါန်း၍ ရသည်ကို သိလာသောအခါ နောက်ထပ် နောက်ထပ် လှူသူ လောင်းသူတွေများလာကြပြန်သည်၊ ဤနည်းဖြင့် ဆရာတော်ရော သံဃာတော်များပါ နေ့မအား ညမနားပင် ဖြစ်ကြပါသည်။

ဒါယကာ ဒါယိကာမတို့၏ ကျေးလိုမွေးလိုသော ဆန္ဒ ပြည့်ဝအောင် "သရိုင်တွင် ရက်တွေများများ နေပါတော့လား" ဟု ပြောစရာရှိ၏၊ ဤကိစ္စမှာ ယခုလို သရိုင်သို့ သွားရေးအတွက် "အသွားအပြန်နှင့်တကွ" ၅ ရက်မျှ ခွင့်ပေးခြင်းသည်ပင် ဆရာတော်အဖို့ များစွာ လိုက်လျောထားခြင်း ဖြစ်သည်။

မှန်ပါ၏, ဆရာတော်သည် ကျောင်းတိုက်တွင် နေ့စဉ် ဩဝါဒပေးခြင်း, စာပေပို့ချခြင်း, ကျမ်းစာရေးသားခြင်းတို့ဖြင့် အချိန်ကို အသုံးပြုမြဲ ဖြစ်ပါသည်၊ မည်သည့်အခါမျှ အချိန်ပို အလကားထားလေ့ မရှိပါ။

မွေးမေ့ရွာသို့ သွားရေး ဖြစ်၍သာ သည်မျှလောက် ခွင့်လွတ်ထားခြင်း ဖြစ်ပါပေသည်။

ထို့ကြောင့် သံဃာတော်များ ရပ်ကွက်အတွင်းသို့ သွားနေခိုက် ကျောင်းတွင် ဆရာတော်တစ်ပါးတည်း ကျန်ရစ်သည် ဆိုသော်လည်း အလုပ်တစ်ခုခုကိုကား ပြီးစီးအောင် လုပ်ရစ်သည်သာ၊ အဘယ်သို့နည်း၊ ဓာတ်ပုံဆရာက "မှတ်တမ်းတင် ရိုက်လိုပါသည်" ဆိုသော နေရာများ၌ လိုက်လိုက်လျောလျော ခွင့်ပြုတော်မူကာ ဓာတ်ပုံအရိုက်ခံသောကိစ္စများ ပြုလုပ်နေပါသည်။

## သမိုင်းဝင်မှတ်တိုင် လိုက်၍စိုက်သူ

ဤ"သရိုင်သွားမှတ်တမ်း"တွင် ဖော်ပြဖို့ အလှည့်မကျသဖြင့် တစ်လမ်းလုံး မြုပ်ကွယ်နေခဲ့ရသော ပုဂ္ဂိုလ်တစ်ဦး ရှိပါသေး၏၊ ယင်းကား အခြားသူ မဟုတ်ပါ၊ ဆရာတော်၏ သာသနာပြုလုပ်ငန်းတွင် တစ်ဖက်တစ်လမ်းမှ ပါဝင်ကူညီနေကျဖြစ်သော ရန်ကုန်မြို့မှ **ဒကာထိန်ဝင်း**ပင် ဖြစ်သည်၊ ဆရာတော် သရိုင်သွားမည် ဆိုသည့် သတင်းကို ဒကာထိန်ဝင်း ကြားသိ၏၊ ကြားလျှင်ကြားခြင်း စဉ်းစားမိသည်။

"သရိုင်ရွာဆိုသည်မှာ ဆရာတော် အရှင်ဇနကာဘိဝံသ၏ မွေးဇာတိလည်း ဖြစ်, ရွှေကျင် ဒုတိယ သာသနာပိုင် မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီး၏ ရဟန်းဖြစ်ရာ ရွာလည်း ဖြစ်၍ လေ့လာစရာကောင်း၏၊ ဤနေရာ ဤဒေသတွေမှ အဘယ့်ကြောင့် ထူးချွန်ပြောင်မြောက်သောပုဂ္ဂိုလ်မွန်များ ထွက်ပေါ်နေရသနည်း?....ထို့ပြင် မွေးဇာတိရပ်ရွာကို သံဃာ ၁၀၀ နှင့် ကြွတော်မူသည်ဆိုသည်မှာလည်း ဤကဲ့သို့သော ဆရာတော်တစ်ပါးအတွက် မှတ်သားထိုက်သော အဖြစ်အပျက်, တွင်၍ ကျန်ရစ်ထိုက်သော မှတ်တိုင်များပင် ဖြစ်၏၊ ထိုမှတ်တိုင်များကို အရာထင်ထင် တွင်၍ကျန်ရစ်အောင် ငါလိုက်၍ စိုက်ထူသင့်သည်"ဟု ဆုံးဖြတ်ပြီးလျှင် တမင်တကာ ရန်ကုန်မှ လာ၍ လိုက်လာခဲ့ခြင်း ဖြစ်သည်ဟူ၏၊ မန္တလေးမှ ဓာတ်ပုံဆရာတစ်ယောက်ကိုလည်း ဒကာထိန်ဝင်း ဝင်၍ ခေါ်ခဲ့၏၊ အမရပူရမှ ထွက်လာကတည်းက ဆရာတော် သံဃာတော်များနှင့်ပတ်သက်၍ ထူးခြားချက်ဆိုလျှင် ဓာတ်ပုံဖြင့် မှတ်တမ်းတင်ခဲ့သည်၊ အထူးသဖြင့် ဝက်လက်မှ မြင်တော်သို့ ကူးကြပုံ, မြင်တော်တွင် သိုက်သိုက်ဝန်းဝန်း ကြိုဆိုဧည့်ခံကြပုံ, တစ်ဖန် မြင်တော်မှ သရိုင်အင်းကြီးကို လှေ ဖောင်များဖြင့် ဖြတ်ကူးနေကြပုံ, ရေလယ်တွင် သံဃာတော်အရှင်မြတ်တို့ မေတ္တာပို့ကြ, ရွတ်ဖတ်ကြပုံ, အင်းကြီး၏ အရှေ့ဘက်ကမ်းသို့ အရောက်တွင် သရိုင်နှင့်တကွ ရွာနီးချုပ်စပ်တို့ကပါ ကမ်းလုံးကျွတ်မျှ ကြိုဆိုနေကြပုံအလုံးစုံကို ဓာတ်ပုံဖြင့် မှတ်တမ်းတင်ခဲ့သည်။

သရိုင်တွင်လည်း ဆရာတော်နှင့်ပတ်သက်သော နေရာဟူသမျှ စေတီ ပုထိုး ကျောင်းကန်များကို ဓာတ်ပုံရိုက်ယူ၍ နောက်ဆုံး ဆရာတော်ငယ်စဉ် ၁၁ နှစ်သားအရွယ်က ကျောင်းသားအများ စာအံ တိတ်ရသော်လည်း သူက အထက်တန်း စာကြီး သမားဖြစ်၍ ည ၉ နာရီအထိ မတိတ်ရသေးဘဲ စာအံခဲ့ရ၏၊ ထိုစာအံခဲ့ရသော ခရေပင်မှာ "ဆရာတော်ကို မတ်တပ်ရပ်ပေးတော်မူပါရန် တောင်းပန်၍" ဓာတ်ပုံရိုက်ယူခဲ့သည်၊ ဤနေရာကိုလည်း ဆရာတော် ပြောပြ၍ပင် သိကြရသည်။

## လွှမ်းဆွတ်သည့်ဟန် သမံတလင်းကလေး

ဒကာထိန်ဝင်းက "သမံတလင်းကလေးနဲ့ဆရာတော်ကို တွဲပြီး ဓာတ်ပုံရိုက်ပါရစေ"ဟု တောင်းပန်သောအခါ ဆရာတော်က လိုက်လျောစွာပင် သမံတလင်းကလေးဆီသို့ ကြွလာတော်မူ၏၊ ထိုအခါ အုတ်သမံတလင်းကလေးက ပြုံးချိုစွာ ဆီး၍ကြိုသလို ထင်ရသည်၊ ကွဲကွာနေရသည်မှာ ကြာပြီမဟုတ်ပါလော၊ နှစ်ပေါင်း ၇၀ ခန့်ပင် ကြာခဲ့ပြီ၊ ဆရာသခင် အရှင်မြတ်ကို လွှမ်းဆွတ်နေသလိုလည်း ဖြစ်ပေလိမ့်မည်၊ စကား မပြောတတ်ရှာ၍သာ သူ့ခမျာ တိတ်ဆိတ်စွာ ကြည့်၍ ကြိုဆိုခဲ့ရခြင်း ဖြစ်မည်၊ စကားများ ပြောတတ်ပါမူ "အို-ဆရာသခင် အရှင်မြတ်ဘုရား, ဘယ်ကို ကြွနေပါသလဲ၊ အကျွန်ုပ်ကို မှတ်မိပါသေးရဲ့လား"စသည်ဖြင့် တွတ်တီးတွတ်တာများ ပြောရှာလေမည်လားဟု ထင်မှားရတော့သည်။

ထို့ပြင်လည်း ဆရာတော်က သရိုင်ရွာတွင် အစဉ်အလာကပင် ထင်ရှားကျော်ကြားခဲ့သော တပဲသာရေတွင်း, ဘုရားဝိုင်းကြီးများ, မောင်ရင်ဈာန်ရစေတီ, ရဟန္တာသိမ်အကြောင်းတို့ကိုပါ ဗဟုသုတအဖြစ် ပြောပြတော်မူ၏၊ ထိုမှတစ်ပါး "သည်ကနေ့ သံဃာတော်များ ဇရပ်ကြီးကို ဆွမ်းစား သွားနေကြတုန်း ဘုန်းကြီးတစ်ပါးတည်း စဉ်းစားနေမိတယ်၊ ကျောင်းဝင်းထဲလမ်းလျှောက်နေရင်း စေတီလှုဘုရားဝိုင်းကြီးဘက်ကို မျက်လုံးရောက်သွားတယ်၊ အရှေ့တောင်ထောင့်က စေတီကြီးက အတော် ယိုယွင်းပျက်စီးနေပြီပဲ, ဟောင်းလဲ ဟောင်းလှပြီ, ထီးတော်လဲ မရှိတော့ဘူး, ကွဲအက်နေပြီ၊ တခြားစေတီတော်တွေ ထုံးဖွေးဖွေးနဲ့ သပ္ပာယ်တော်မူကြပေမယ့် ဒီစေတီတော်ကြီးမှာတော့ အမွေခံ အမွေဆက် မရှိဘူးထင်ရဲ့, ဒါ့ကြောင့် ပြင်မယ့်သူမရှိ ဖြစ်နေရှာသလား တွေးနေမိတယ်၊ မိမိရဲ့ ရင်းနှီးတဲ့ ဒါယကာဒါယိကာမတွေ စုပေါင်းပြီး ပြင်ရရင် ဖြစ်နိုင်မယ်ထင်တယ်လို့လဲ တွေးမိတယ်"ဟု အမိန့်ရှိတော်မူသည်၊ ဆရာတော်၏ စကားကို ဒကာထိန်ဝင်းက စိတ်ဝင်စားမိ၏၊ "ဆရာတော်သည် ဘုရား ပုထိုး စေတီများ ရှိပါလျက် အသစ်တည်ခြင်းကို အားမပေးသော်လည်း အဟောင်းပြင်ခြင်းကိုကား လိုလားတော်မူတတ်၏၊ ယခုအခြေအနေမှာ စေတီကြီးသာမက ရဟန္တာသိမ်ကြီး၏ အဆောက်အအုံကလည်း ယိုယွင်းလျက်ရှိချေပြီ၊ သုဂတိလက်မှတ် ယူထားကြပြီ၊ ထိုအခါ ဒကာထိန်ဝင်းက "တပည့်တော်တို့ မောင်နှမ နှစ်ယောက်ကစပြီး မ,တည်ပါ့မယ်၊ စုပေါင်း၍ ပြင်ကြပါမယ်ဘုရား၊ စေတီကြီးသာမက စေတီကြီးနှင့် ကပ်လျက်ရှိတဲ့ ရဟန္တာသမုတ်သော သိမ်လို့ ကျော်ကြားတဲ့ သိမ်အဆောက်အအုံကိုပါ တစ်ခါတည်း ပြုပြင်ပါမယ်ဘုရား"ဟု လျှောက်ထားလိုက်တော့၏၊ ထိုစကားကို ကြားရသော ဆရာတော်မှာ "ရှေးဟောင်း အမွေအနှစ်တွေကို ပြုပြင်ဖို့ အခွင့်အလမ်းရပြီ"ဟု ဆိုကာ ကျေနပ်နေတော်မူဟန်ရှိ၏၊ ဒကာထိန်ဝင်းက အတွေးနယ်ချဲ့ကြည့်သည်၊ အခြားနေရာတို့၌လည်း ရဟန္တာသမုတ်သော သိမ်တွေ တွေ့ရသည်၊ သို့သော် ထင်ရှားသော မည်သည့် ဆရာတော်ကြီးများ ကံပြုဖူးသည်ဟု အဆိုအမိန့် မတွေ့ရ၊ ဤရဟန္တာသိမ်ကား ပထမ ရွှေကျင်သာသနာပိုင်ဆရာတော်ဘုရားကြီး ကံပြုဖူး၏၊ ထို့ပြင် ဒုတိယရွှေကျင်သာသနာပိုင်ဖြစ်လာမည့် မဟာဝိသုဒ္ဓါရာမဆရာတော်လောင်းလျာ ရဟန်းဘောင်တက်စဉ်က ဤသိမ်မှာပင်တက်သည်၊ ပထမ ရွှေကျင်သာသနာပိုင် ဆရာတော်ဘုရားကြီးက ဥပဇ္ဈာယ်အဖြစ် ချီးမြှောက်တော်မူသည်ဟု သိရ၏။

ဤသို့ သမိုင်းဝင် ထင်ရှားသော ဆရာတော်ဘုရားကြီးများ၏ ကံပြုရာသိမ်ဖြစ်ခြင်းကြောင့်လည်း ပြုပြင်လိုစိတ် ပို၍ ပြင်းပြဖို့ရာ ကျေနပ်စရာ ဖြစ်နေပါတော့သည်၊" ဤသို့ တွေးပြီးလျှင် ဦးထိန်ဝင်း အစရှိသော ဓမ္မမိတ်ဆွေတစ်စုတို့က သုဂတိဗိမာန်များ ရခြင်း၏ အကြောင်းဖြစ်သော အဆောက်အအုံတို့ကို ပြုပြင် ဆောက်လုပ်ခြင်း, သုဂတိဘုံသို့ လားရကြောင်း ကောင်းသော ကိုယ်ကျင့်သီလတို့ကို ဆောက်တည်ခြင်းအားဖြင့် ကိုယ်စီကိုယ်င သုဂတိလက်မှတ်များ, မဂ်ဖိုလ်လက်မှတ်များကို အသင့်ယူထားလိုက်ကြလေပြီ။

## ရုပ်သေးပွဲကို ကြည့်သလိုတဲ့

စတုတ္ထရက်တွင် ခင်မင်နှင့် စမွန်းရွာများသို့ သံဃာ ၂၅ ပါးစီ ကြွ၍ ပရိတ်ချီးမြှင့်ပေးကြရ၏၊ မင်းကုန်းရွာကြီးကိုကား အိမ်ခြေ ပို၍ များသဖြင့် သံဃာ ၅၀ ကြွ၍ ချီးမြှောက်တော်မူကြသည်၊ ဆရာတော်ကြီး နှစ်ပါးတို့ကား ကျောင်းမှာပင် ကျန်ရစ်တော်မူကြ၏၊ မင်းကုန်းရွာကြီးမှာ အနည်းငယ်ဝေးသဖြင့် သရိုင်သို့ ညပြန်မအိပ်နိုင်တော့ချေ၊ မင်းကုန်းမှာပင် အိပ်ကြရ၏၊ နံနက် အရုဏ် ဘုဉ်းပေးပြီးမှ ပြန်ခဲ့ကြရတော့သည်။

မဟာဂန္ဓာရုံသံဃာတော်များသည် ရောက်လေရာတွင် အရေးပေးမှုကို ခံယူကြရ၏၊ လေးစားမှု, မြတ်နိုးမှု, တန်ဖိုးထားမှုကို ခံယူကြရသည်၊ အဘယ့်ကြောင့်နည်း? ဝိနည်းအဆုံးအမတော်အရ အနေအထိုင် ကျစ်လျစ်မှု, အဝတ်အရုံ သပ်ရပ်မှု, အပြောအဆို သိမ်မွေ့မှု, အဆက်အဆံ ယဉ်ကျေးမှုတို့ကြောင့် ဖြစ်ပေ၏၊ မည်သူမဆို ဤကဲ့သို့ လိုက်နာကျင့်သုံးပါလျှင် ဤကဲ့သို့ ဖြစ်ရမည်သာတည်း။

ထိုရွာက အသက် ၇၀ ကျော် ဒါယကာကြီးတစ်ဦးက လျှောက်လိုက်ပါ၏၊ "တပည့်တော်ဖြင့် တစ်သက်နှင့်တစ်ကိုယ် ဒီလို သံဃာမျိုးတွေကို တစ်ခါမှ မဖူးခဲ့ရ မကြုံခဲ့ရသေးပါ၊ အဝေးကကြည့်လဲ ကြည်ညိုစရာ, အနီးကပ်ကြည့်လဲ ကြည်ညိုစရာပဲကိုး... အမှန်ကတော့ အနီးကပ် အကြည့်ခံနိုင်မှဘုရား" ထို ဒါယကာကြီး၏ စကားအတိမ်အနက်သည် မသေးလှချေ၊ "အနီးကပ် အကြည့်ခံနိုင်မှ"တဲ့, ဟုတ်ပါသည်၊ အနီးကပ် အကြည့်ခံနိုင်မှ၊ သူ၏စကားသည် တစ်နေရာတွင် ဘုန်းကြီးကိုးကွယ်မှုနှင့်ပတ်သက်၍ ရှေ့မီ နောက်မီ အဘိုးကြီးတစ်ဦးက ဩဝါဒပေးသလိုပင် ဖြစ်၏။

"ဘုန်းကြီးကိုးကွယ်တယ်ဆိုတာ... ရုပ်သေးပွဲကြည့်သလို ကိုးကွယ်ရတယ်တဲ့၊ (ရုပ်သေးဆိုတာ အခုခေတ်တော့ နည်းသွားပြီ၊ သစ်သားရုပ်ကလေးတွေပါပဲ၊ မင်းသမီးရုပ် မင်းသားရုပ် လူရွှင်တော်ရုပ် ဝန်ကြီးရုပ် ဘီလူးရုပ် ဆင်ရုပ် မြင်းရုပ် စသည်ပြုလုပ်ထားပြီး ကြိုးဖြင့် ဆွဲ၍ ကစေရသော အရုပ်များဖြစ်၏။) အဲဒီပွဲကို သွားပြီးကြည့်တဲ့အခါ ဝေးဝေးကနေ ကြည့်ရင် အရုပ်ကလေးတွေက ငယ်နေလို့ မှုန်မွှားမွှားပဲ မြင်ရတယ်၊ ကြည့်မကောင်းဘူး၊ တစ်ဖန် အနီးကပ်ပြီး ကြည့်ပြန်တော့လဲ ခြေလက်ခေါင်းခါး သိုင်းထားတဲ့ ကြိုးတွေကို မြင်နေရတော့ ကြည့်မကောင်းပြန်ဘူး, မနီးမဝေးကနေပြီး ကြည့်မှ အနေတော် ကြည့်လို့ ကောင်းတယ်၊ အဲဒီလိုပဲတဲ့, ဘုန်းကြီးကို ကိုးကွယ်တဲ့နေရာမှာ သိပ်အဝေးကြီးက လှမ်းပြီး ကိုးကွယ်နေရင် တရားဓမ္မ မနာရလို့ ရသင့်တဲ့ အကျိုး မဖွံ့ဖြိုးဘူးတဲ့၊ အနားကပ်လွန်းပြန်တော့လဲ ကြိုးတွေ ရှုပ်နေတာကို မြင်ရတတ်လို့ မကောင်းပြန်ဘူးတဲ့၊ အဲ- မနီးမဝေး အနေတော်က နေပြီး ကိုးကွယ်မှတဲ့။

## ပြန်တော့မယ် နှုတ်ဆက်တရား

မွေးဇာတိဌာန သရိုင်မြေသို့ ရောက်နေကြသည်မှာ တစ်ရက် နှစ်ရက် သုံးရက် လေးရက် ရှိသွားပြီ၊ လေးညဥ့်ကျိန်းစက်ပြီးလေပြီ၊ ယနေ့ကား ငါးရက်မြောက်နေ့ ဖြစ်၏၊ ငါးရက်မြောက်နေ့ ညဥ့်အတွက် ဝက်လက်သို့ ပြန်၍ အိပ်ကြရမည်၊ အသွားတုန်းက သံလမ်းအရှေ့ဘက်က ဆွမ်းမကပ်လိုက်ရသေး၍ ကပ်လိုခြင်းနှင့် ဆရာတော်၏ဩဝါဒကိုလည်း နာယူလိုကြခြင်းတို့ကြောင့် လျှောက်ထားတောင်းပန်သည့်အတွက် ယခုကဲ့သို့ ဝက်လက်ကို ပြန်၍ အိပ်ကြခြင်း ဖြစ်သည်။

ယနေ့ကား ပြန်ကြရတော့မည်ဖြစ်၍ နှုတ်ဆက်ကြရတော့မည်၊ "နှုတ်ဆက်"ဆိုကာမှ ရင်ထဲတွင် တစ်မျိုးကြီးတွေ ဖြစ်သွားကြရတော့၏၊ နှုတ်ဆက်ရန် အသံလည်း မထွက်ချင်တော့၊ ဆို့ဆို့နင့်နင့်ကြီးတွေ ဖြစ်ကုန်ကြရသည်။

နေ့ဆွမ်းဘုဉ်းပေးပြီး၍ ခေတ္တနားပြီးလျှင် နေ့ ၁ နာရီသို့ ရောက်လာပြီ၊ အစီအစဉ်အတိုင်း နမနှင့် အစ်မကြီးတို့ရဲ့ ဇရပ်ပေါ်မှာ စုရုံးထားသော ဆွေမျိုးဒကာ ဒကာမတို့၏အထံသို့ "နှုတ်ဆက်သည့်အနေဖြင့်" ဆရာတော်ရော သံဃာတော်များပါ စီတန်း၍ တငြိမ့်ငြိမ့် ကြွနေကြသည်၊ ဇရပ်ကြီးပေါ် ရောက်လျှင် သံဃာတော် အားလုံးက "မဟာဂန္ဓာရုံမှာကဲ့သို့"

သံပြိုင်ညီညာ အရပ်ဆယ်မျက်နှာသို့ မေတ္တာပို့သကြပါသည်၊ ထို့နောက် ဆရာတော်က ဆွေမျိုးတို့အား မှာထားစရာရှိသည်တို့ကို မှာထား၍ အနည်းငယ် ဩဝါဒပေးပါသည်။

ပြီးလျှင် သံဃာတော်များအားလုံး သရိုင်ရွာထဲက ဖြတ်၍ ညောင်ပင်တွင်းရွာဆီသို့ သွားကြရပါသည်၊ အချို့ ဒါယကာ ဒါယိကာမများက ဇရပ်ကြီးပေါ်မှ ဆင်း၍ ရွာတွင်းသို့ နောက်က လိုက်ပါလာကြ၏၊ အချို့ကလည်း ရွာ၏ အနောက်အတော်ဝေးအောင် လိုက်ပါလာကြပါသည်၊ ဟုတ်ပါ၏၊ သူတို့ဘက်က နေ ကြည့်လျှင် "လေးငါးရက်မျှသာ ရှိသေးသဖြင့် အလွမ်းမပြေသေး"ဟု ဆိုကြပေလိမ့်မည်၊ အနည်းငယ်သော ဒါယကာများကား ညောင်ပင်တွင်းရွာအထိ လိုက်လာကြတော့၏။

ဘာ့ကြောင့် ညောင်ပင်တွင်းရွာသို့ သွားနေကြရသနည်းဆိုလျှင် ညောင်ပင်တွင်းရွာသည်လည်း "အများရွာတို့ကဲ့သို့" သံဃာများအတွက် ကျေးဇူးများလှ၏၊ အများရွာတွေလို သရိုင်သို့လာ၍ ဆွမ်းကပ်ကြသည့်အပြင် အလာတုန်းကလည်း သူတို့ရွာက လှေများဖြင့် လာခဲ့ကြရ၏၊ အပြန်တွင်လည်း သူတို့ လှေများဖြင့်ပင် ပြန်ကြရပါမည်။

သို့သော် သူတို့ရွာအတွက် ပရိတ်ရွတ်မပေးကြရသေး၊ ရွံ့တွေ ဗွက်တွေ ထူနေ၍ ဖြစ်ပါ၏၊ ထို့ကြောင့် "ရွာနှင့်အနီးကပ်ဆုံး ကမ်းနားမှာ လှေတွေနဲ့ကပ်ပြီး ရွတ်ပေးပါ့မယ်"ဟု ဝန်ခံထားသည့်အတိုင်း ကြွနေခြင်း ဖြစ်သည်၊ သူတို့သည် ဝမ်းမြောက်လွန်း၍ စွမ်းနိုင်သမျှ လမ်းတွေကို ဖို့ထားကြ၏၊ သံဃာတော်များ ရောက်လာသောအခါ ပရိတ်ရွတ်၍ ဆရာတော်က ဩဝါဒပေးတော်မူသည်၊ ရှာလပတ်ရည်များ ကပ်လှူကြ၏။

## မေတ္တာခရီး ပြီးဆုံးခဲ့ပြီ

ညောင်ပင်တွင်းမှ မြင်တော်သို့ လှေထွက်သောအခါ လှေများပေါ်တွင် သံဃာတော်တို့က ဓမ္မစကြာ ရွတ်၍ သွားကြပါသည်၊ နေက မပူမအေး, လေကလေးက ညှင်းညှင်းနှင့် အလွန်ကြည်နူးဖွယ် ကောင်းလှပါသည်၊ (ဤအပြန်ခရီးမှာ မြောင်းမြဆရာတော်ဘုရားကြီးက သရိုင်မှာ ကျန်ရစ်၍ မနက်လင်းမှ ဝက်လက်သို့ လိုက်လာရန် ဖြစ်သည်၊ ထိုနေ့ညက မြောင်းမြဆရာတော်ကြီးကလည်း ဇရပ်ကြီးပေါ်မှာ ဒကာ ဒကာမတို့အား ဩဝါဒပေးတော်မူပါသတဲ့။)

တောင်မြို့ မဟာဂန္ဓာရုံဆရာတော်နှင့် သံဃာတော်များသည် ညနေဆည်းဆာတွင် ဝက်လက်သို့ ရောက်ကြ၏၊ ညပိုင်းတွင် ဘုရားကြီး ဓမ္မာရုံမှာ သံဃာတော်များက ရတနသုတ်ပရိတ်ကို ပါဠိရွတ် အနက်ပေးကြရ၏၊ ဆရာတော်က အဓိပ္ပာယ်ပြောရင်း ဟောတော်မူ၏၊ ဓမ္မရတနာအခန်းတွင် "ခယံ ဝိရာဂံ"များနှင့် ပတ်သက်၍ နိဗ္ဗာန်အကြောင်းကို အကျယ်ဟောပြတော်မူသည်၊ နောက်တစ်နေ့ နံနက်အရုဏ်တွင် ဆန်ပြုတ်ကပ်၍ နေ့လယ်တွင် ဆွမ်းကပ်ကြ၏၊ ခေတ္တ အနားယူကြပြီးနောက် ပြန်ဖို့ ကားကြီးများ အဆင်သင့် ရောက်လာကြသောအခါ နေ့ ၁ နာရီတွင် ပြန်လာခဲ့ကြပါတော့သည်။

အပြန်ခရီးတွင် ရွာသာကြီးက ရှာလပတ်ရည် ကပ်၍ ပေါင်းမရွာက ကြံရည်ကပ်ကြသည်၊ နေရာတိုင်းမှာ သံဃာများက ပရိတ်ရွတ်ပေးတော်မူကြ၏၊ ပြီးလျှင် ဆရာတော်က ဩဝါဒပေးမြဲဖြစ်သည်၊ ရွာသာကြီးမှာ ဆရာတော်က ဩဝါဒပေးပြီးနောက် ကားကလေးဖြင့် ခရီးဆက်ရာ ပေါင်းမရွာက မသိလိုက်၊ နောက်က ကြွလာသော သံဃာများ၏ ကားကျမှ သိကြရတော့၏၊ ထို့ကြောင့် စာချဘုန်းကြီး ဦးကုဏ္ဍလာဘိဝံသက "ဆရာတော် မြင်တော်ရွာမှာ ပေးခဲ့သော ဩဝါဒ"ကို ပြန်လည်၍ ပြောပြရပါတော့သည်၊ ထိုဩဝါဒမှာ မှတ်သားဖွယ် အလွန်ကောင်းပါ၏။

၁။ **အမှောင်က အမှောင်သို့ သွားမည့်သူ၊**
၂။ **အမှောင်က အလင်းသို့ သွားမည့်သူ၊**
၃။ **အလင်းက အမှောင်သို့ သွားမည့်သူ၊**
၄။ **အလင်းက အလင်းသို့ သွားမည့်သူ** ဟူ၍ လူအမျိုးအစားလေးပါးကို ပြသော"တမောတမပရာယဏ"သုတ်တော်ပင်ဖြစ်ပေသည်၊ အားလုံးနေဝင်ရီတရောတွင် အမရပူရသို့ ပြန်လည်ဆိုက်ရောက်ကြပါ၏၊ ဤသို့လျှင် မေတ္တာရှေ့သွားဖြင့် ကြွသွားခဲ့သော ဒေသစာရီခရီးကြွချီမှုကား ယခုအခါ ပြီးဆုံး၍ ချောမောစွာ ပြန်လည်ရောက်ရှိကြပါတော့သည်။

## ဆရာတော်အား အကြွင်းမဲ့ လေးစားလာချိန် ကြွလာချီးမြှင့်ရန် အခွင့်ပန်ကြ၍

၁၃၃၅ ခု ပြာသိုလဆန်း ၅ ရက် (၁၉၇၃ ဒီဇင်ဘာ ၂၈ ရက်) သောကြာနေ့က ဖြစ်၏၊ ဆရာတော်သည် ကပ္ပိယဒါယကာကြီး ဦးကျော်ဝင်းနှင့်အတူ အမရပူရမှ ရန်ကုန်သို့ လေယာဉ်ဖြင့် ကြွတော်မူသည်၊ ကိစ္စမှာ ဦးမောင်ကြီး၏ နဝကမ္မအလှူပွဲသို့ မကြွသည်မှာ ကြာပြီဖြစ်၍ ဂေါပကလူကြီးများက ကြွလာစေလိုသဖြင့် ကြွရခြင်း ဖြစ်လေသည်၊ ဒကာဦးထိန်ဝင်းနှင့် ဆင်ပျံဖဲထီး ဦးကိုကိုလေးတို့က လေယာဉ်ကွင်းတွင် လာ၍ ကြိုကြ၏၊ တည်းခိုသည့်နေရာကား ဗဟန်းဝိသုဒ္ဓါရုံတိုက်သစ် ဖြစ်သည်။

ထိုအချိန်၌ ကျေးဇူးရှင် မြောင်းမြဆရာတော်ဘုရားကြီးက မြောင်းမြမှ သီတင်းသုံးနေခိုက်ဖြစ်၍ ဆရာတော်ကြီး၏ ကျောင်းတိုက်မှာ တည်းခိုဖို့ အစီအစဉ် မရှိပါ၊ သို့ဖြစ်၍ ဝိသုဒ္ဓါရုံတိုက်သစ်မှာ တည်းခိုဖို့ ထိုတိုက်ဆရာတော်လည်းဖြစ်၍၊ မဟာဂန္ဓာရုံဆရာတော်၏ တပည့်လည်း ဖြစ်ဖူးသော ဆရာတော် ဦးဝါသဝါဘိဝံသက ပင့်လျှောက်သဖြင့် ဒကာထိန်ဝင်းနှင့် ဒကာဦးကိုကိုလေးတို့က စီစဉ်ပေးကြ ရလေသည်၊ ဆရာတော် ဦးဝါသဝါဘိဝံသကလည်း ကံကောင်းထောက်မ အခွင့်ရသဖြင့် ကြွရောက်လာသော "မိမိဆရာဟောင်း" အမရပူရမဟာဂန္ဓာရုံ ဆရာတော်ဘုရားကို ချမ်းသာအောင် အစွမ်းကုန် ပြုစုလုပ်ကျွေးတော်မူ၏။

သိကျွမ်းဖူးသော ဒါယကာ ဒါယိကာမတို့လည်း တဖွဲဖွဲ ရောက်လာကြတော့သည်၊ ဆရာတော်၏ ကျန်းမာရေး နေကောင်းထိုင်သာ ရှိ မရှိ မေးလျှောက်ကြသူများလည်း မစဲ ကြတော့ပေ။

နောက်တစ်နေ့ ပြာသိုလဆန်း ၆ ရက် စနေနေ့ နေ့လယ်တွင် စိန်ဂျွန်းလမ်းမှ ဒကာထိန်ဝင်း၏ နေအိမ်၌ အလှူရေစက်ချပွဲတစ်ခု ပြုလုပ်သည်။

လွန်ခဲ့သော သီတင်းကျွတ်လထဲက သံဃာ ၁၀၀ နှင့် ဆရာတော် သရိုင်ရွာသို့ ပထမခေါက် ကြွစဉ်တွင် စေတီလှုဘုရားဝင်းကြီးထဲက ရဟန္တာသိမ်နှင့် ရွှေဘုံသာစေတီတော်ကြီးကို ပြန်လည်ပြုပြင်လိုစိတ် ဖြစ်ပေါ်ခဲ့၏၊ ထိုအခါ ဒကာထိန်ဝင်းက တာဝန်ယူခဲ့သည်၊ ယင်းအတွက် ဆရာတော်၏ ရှေ့မှောက်မှာ ရေစက်ချ၍ ကပ္ပိယဒါယကာကြီးမှတစ်ဆင့် သရိုင်ရွာသို့ လှူဒါန်းလိုက်ခြင်းပင် ဖြစ်လေသည်။

## ဦးမောင်ကြီး၏ နဝကမ္မအလှူပွဲ

ပြာသိုလဆန်း ၇ ရက် (၃၀-၁၂-၇၃) တနင်္ဂနွေနေ့ နံနက်တွင် ဗုဒ္ဓဘာသာကလျာဏယုဝအသင်း (ဝိုင်အမ်ဘီအေ)အဆောက်အအုံကြီးတွင် ဦးမောင်ကြီး၏ နဝကမ္မအလှူပွဲ ကျင်းပသည်၊ (နဝကမ္မဆိုသည်မှာ အလှူငွေကို ဆိုလိုခြင်းဖြစ်၏၊ ရဟန်းသံဃာတော်များအတွက် အပ်စပ်သော ဝေါဟာရဖြင့် သုံးနှုန်းခေါ်ဆိုထားခြင်း ဖြစ်သည်၊ ရဟန်းသံဃာတော်များ၏ (နဝကမ္မ)အား အသစ်အသစ်ဖြစ်ပေါ်လာသော အလုပ်အား လှူထားအပ်သောငွေဟု ဆိုလိုသည်၊ ရဟန်းပုဂ္ဂိုလ်အား တိုက်ရိုက်မလှူရ၊ ရဟန်းပုဂ္ဂိုလ်၏ အလုပ်ကိစ္စအားသာ လှူရသည်။) ထိုငွေမျိုးကို ဦးမောင်ကြီး ဆိုသူက စီမံကိန်းချ၍ လှူခဲ့သည်။

ရန်ကုန်မြို့မှ ဦးမောင်ကြီးဆိုသူသည် ဒုတိယကမ္ဘာစစ်မဖြစ်မီက စကော့တလဲ ရေနံကုမ္ပဏီမှာ ရှယ်ယာ (အစု)ဝင်ထားခဲ့၏၊ အစပိုင်းတွင် အလွန်မများခဲ့သော်လည်း ဒုတိယကမ္ဘာစစ်ဖြစ်လာသောအခါ အမြတ်ငွေကို မပို့နိုင်သဖြင့် ကုမ္ပဏီက ရှယ်ယာအဖြစ် စု၍ ထားခဲ့သည်၊ စစ်ကြီးပြီးသောအခါ ဦးမောင်ကြီး၏ ရှယ်ယာတွေမှာ အတော်များနေပါသတတ်။

ထိုရှယ်ယာများမှ နှစ်စဉ်ရသော အမြတ်ငွေတွေကို ၈ ပုံခွဲပြီး ၂ ပုံကို မန္တလေး ပရိယတ္တိအသင်းအားလှူပါသတဲ့၊ တစ်ပုံကို ရန်ကုန် (ဝိုင်အမ်ဘီအေ) အသင်းအား လှူပါသတဲ့၊ ကျန်တဲ့ ၅ ပုံကိုတော့ မြန်မာနိုင်ငံမှာ ပရိယတ္တိဘက်က စွမ်းစွမ်းတမံ အားထုတ်နေကြတဲ့ ဆရာတော်ကြီး ၅ ပါးကို ရွေးချယ်ပြီး နှစ်စဉ် လှူဒါန်းနေကျ ဖြစ်ပါသတတ်။

ဆရာတော် အရှင်ဇနကာဘိဝံသက ထိုင်းပါးတွင် အပါအဝင်ဖြစ်၍ ကြွလာရခြင်း ဖြစ်ပေသည်၊ တစ်ပုံ တစ်ပုံလျှင် သုံးထောင်ကျော် တန်ပါ၏၊ ဦးမောင်ကြီးက သူမရှိသည့်နောက်တွင်လည်း အစဉ်မပျက် လှူရစ်နိုင်အောင် ဂေါပကဖွဲ့၍ ထားခဲ့သည်၊ [ပခုက္ကူဆရာတော်သုန်, ပြည်ဇောတိကာရုံဆရာတော်, မန္တလေးဘုရားကြီးတိုက် ဆရာတော် ဦးနာရဒတို့လည်း ကြွလာတတ်ကြသည်။]

ထိုနေ့ညပိုင်းတွင် ဆရာတော် အရှင်ဇနကာဘိဝံသက (ဝိုင်အမ်ဘီအေ) အသင်းတိုက်ကြီး၌ သင်္ဂါယနာတင်သမိုင်းကို ကျောရိုးထားပြီး သာသနာပြုပြင်ရေးတရားကို ဟောကြားတော်မူရ၏၊ အသင်းတိုက်ကြီး၏ အတွင်းအပြင် ပြည့်လျှံသွားအောင် ရဟန်း ရှင် လူများ လာရောက် နာယူကြသည်။

## တရားတော်၏ လိုရင်းအကျဉ်းချုပ်

ထိုညက တရားတော်မှာ ပထမ ဒုတိယ တတိယ စတုတ္ထသင်္ဂါယနာသာသနာတိုင်အောင် ဆောင်ရွက်တော်မူကြသော ရှေးမထေရ်မြတ်တို့၏ လုပ်ရှားပုံတို့ကို ဖော်ပြ၍ သာသနာတော်ကို ထိန်းသိမ်းစောင့်ရှောက်ခဲ့ကြပုံများကို ဟောပြတော်မူ၏၊ ဦးစွာအစ ပထမသင်္ဂါယနာ၏ ခေါင်းဆောင် အရှင်မဟာကဿပ အစရှိသော ရဟန္တာမထေရ်မြတ်တို့၏ ဆောင်ရွက်နေပုံကိုဆိုလျှင် ကြက်သီးဖြန်းဖြန်းထ ဖွယ် မြင်ယောင်လာအောင် ဟောပြတော်မူသည်။

တစ်ဖန် ဒုတိယသင်္ဂါယနာ၏ ခေါင်းဆောင် အရှင်ယသရဟန္တာမထေရ်မြတ်၏ လှုပ်ရှားဆောင်ရွက်ပုံနှင့်တကွ သက်တော် ၁၄၀ ရှိ အရှင်သဗ္ဗကာမိမထေရ်မြတ်ကြီးတို့ပါ တောထဲက ကြွလာဆောင်ရွက်ပုံတို့ကိုလည်း ရင်တဖိုဖို ကြည်ညိုကြရပါသည်။

တစ်ဖန် တတိယသင်္ဂါယနာ၏ ခေါင်းဆောင်ဖြစ်လာမည့် အရှင်တိဿဗြဟ္မာကြီးဆိုလျှင်... "သာသနာပြုနိုင်တဲ့အစွမ်း ရှိသည်၊ သာသနာပြုရမည်"ဆို၍ အထက်ဘုံသို့ တက်ပြီး ဗြဟ္မာ့စည်းစိမ်ကို ယူနိုင်လျက် မယူတော့ဘဲ ဗြဟ္မာ့စည်းစိမ်နှင့်လဲ၍ သာသနာပြုရန် လူ့ပြည်သို့ ဆင်းကြွကာ ပဋိသန္ဓေတည်လာပုံကိုလည်းကောင်း, ထို့ပြင် အိမ်ရှေ့မင်းစည်းစိမ်ကို ယူတော့မည့်ဆဲဆဲ မယူတော့ဘဲ မင်းစည်းစိမ်နှင့်လဲ၍ သာသနာ့ဘောင်သို့ ဝင်လာကာ သီရိလင်္ကာ(သီဟိုဠ်)တွင် လျှမ်းလျှမ်းတောက် သာသနာပြုတော်မူကြသော အရှင်မဟာမဟိန္ဒတို့ မောင်နှမကိုလည်းကောင်း ဟောပြ၍ အားရစဖွယ် နာယူကြရပါသည်။

ထိုမှနောက်၌ကား စတုတ္ထသင်္ဂါယနာ ပေထက်မတင်မီကာလတွင် ဆင်းရဲဒုက္ခရောက်ကြရရှာသော မထေရ်မြတ်ကြီးတို့အကြောင်း ကြားရသောအခါ ရင်ထဲ၌ နင့်လောက်အောင် နာကျင်ခံခက် အတူခံစားကြရ၍ စိတ်မကောင်းခြင်းများစွာ ဖြစ်ကြရပါသည်၊ သို့ဖြစ်လျက်လည်း ထိုမထေရ်တို့မှာ သာသနာအတွက် ရင်ဝယ်မြေကတုတ်ပြုလုပ်ကာ သာသနာမပျောက်ပျက်အောင် စောင့်ရှောက်တော်မူခဲ့ကြသည်ဟု သိကြရပါသည်။

ထိုသို့ ထိုသို့ ကိုယ့်အပိုင်းနှင့်ကိုယ် ကိုယ့်ခေတ်နှင့်ကိုယ် မခိုမကပ်ကြဘဲ ဆင်းရဲဒုက္ခကို တွန်းဖယ်ကာ သာသနာတော်အတွက် ဆောင်ရွက်တော်မူခဲ့ကြသလို မိမိတို့ခေတ်တွင်လည်း မိမိတို့ တွေ့ကြုံနေရသော အားနည်းနေသည့် သာသနာတော်၏ အခြေအနေကို "ရှေးမထေရ်တို့ကို စံနမူနာထား၍" ကိုယ်စီကိုယ်င ကြိုးစား ပြုပြင်သင့်ကြကြောင်း တပ်လှန့်ဟောကြားတော်မူသည်။

## သာသနာဆိုတာ ပြုသူရှိလျှင် တိုးတက်

ယခုအချိန်မှာ သာသနာတော်ကြီး ညှိုးမှိန်နေပြီ, ကျဆင်းတော့မှာပဲ, နာလန်ထူနိုင်တော့မှာ မဟုတ်ဘူး"လို့ တချို့က ညည်းနေကြသည်၊ "ညည်းနေမည့်အစား စွမ်းအားရှိသမျှ လှုံ့လပြု၍ ဆောင်ရွက်ကြပါလျှင် အတော်အတန် သက်သာမည် မဟုတ်ပါလော"ဟုလည်း ထောက်ပြထား၏။

ထို့ပြင် မြတ်စွာဘုရား၏ သာသနာတော်ကြီးဟာ ယခုမှ ၂၅၀၀ ကျော်ကျော်လေးသာ ရှိပါသေးသည်၊ လေးအသင်္ချေ နှင့်ကမ္ဘာတစ်သိန်း အသက်အိုးအိမ်စည်းစိမ်များစွာ စွန့်လွှတ်ပြီး ဖြည့်ခဲ့ရသည့် ပါရမီတွေနှင့်စာပါလျှင် ပျက်စီးသွားဖို့ အချိန် အလွန်စောပါသေးသည်၊ ထိုပါရမီရှင် ဘုန်းကံရှင်မြတ်စွာဘုရား၏

သာသနာတော်ကြီးဟာ ဒီမျှလောက်နှင့် မကွယ်ပသင့်သေးပါဘူး"ဟူ၍လည်း အားပေးတော်မူထား၏။

ဟုတ်ပါသည်, သာသနာဆိုတာ ပြုသူရှိလျှင် တက်လာစမြဲပင် ဖြစ်ပါသည်၊ ဆိုခဲ့သော သင်္ဂါယနာလေးတန်တွင် ယိုယွင်းလာသည်တို့ကို မပြုပြင်ဘဲ ငေးစိုက်၍ ကြည့်ရုံသာ ကြည့်နေခဲ့ကြပါလျှင် ယနေ့ ဤအခြေအနေမျိုးကိုပင် တွေ့ရမည်မဟုတ်ပါချေ၊ အားနှင့်ခွန်နှင့် လုံ့လဆင့်၍ ပြင်ခဲ့ပြုခဲ့ကြ၍သာ ဤအခြေအနေမျိုးကို ဖူးတွေ့နေကြရခြင်း ဖြစ်ပါသည်။

ထို့ကြောင့်လည်း ဆရာတော် အရှင်ဇနကာဘိဝံသက တဖွဖွ တပ်လှန့်နိုးဆော်နေခြင်းဖြစ်ပါ၏၊ "သာသနာတော်ကြီး သန့်ရှင်းဖို့, တည်တံ့ဖို့, ပြန့်ပွားဖို့အတွက် သဒ္ဓါတရားရှိသော ဆရာတော်သံဃာတော်များ စုပေါင်းညီညာ ပြုပြင်ကြပါလျှင် အဘယ်မှာ မဖြစ်နိုင်ဘဲ ရှိအံ့နည်း၊ ဖြစ်နိုင်သေးသည်သာ၊ လူရော ရှင်ပါ ဒါယကာ ဒါယိကာမများ ညီညွတ်စွာနှင့် အားတက်သရော ပြုပြင်ကြပါမူ အစိုးရကပါ ပါလာမည်မှာ အမှန်ပင် ဖြစ်ပါ၏၊ သို့မဟုတ် အစိုးရက သတ္တိရှိရှိနှင့် ပြုပြင်မည်ဆိုလျှင်လည်း တိုင်းပြည်က (ဒါယကာ ဒါယိကာမများက) ပါလာမည်မှာ အမှန်ပင် ဖြစ်၏၊ သာသနာကို ပကာသနတွေ မလွှမ်းစေဘဲ, သာသနာကို ယိုယွင်းတိမ်းစောင်းနေသော အကျင့်ပျက်များက မအုပ်စိုးစေဘဲ ရဲရဲကြီး ဖယ်ရှား၍ လျှမ်းလျှမ်းတောက် ပြုလုပ်နိုင်ပါလျှင် မူရင်းအတိုင်း ပြန်ရောက်ပြီး တိုးတက်လာနိုင်ပါသေး၏"ဟု ဟောပြောတော်မူသည်။

(ယခုအခါ ယင်းဟောပြောချက်များ အပြည့်အစုံကို တိပ်ခွေမှ ကူးယူ၍ "အနာဂတ်သာသနာပြုပြင်ရေးတရားတော်"ဟူသော ခေါင်းစီးဖြင့် စာအုပ်ငယ်တစ်အုပ် ပြုလုပ် ထွက်ပေါ်နေပါပြီ။)

## သိပ္ပံအမြင်နှင့်အဘိဓမ္မာအဖြေ

နောက်တစ်နေ့ (၃၁-၁၂-၇၃) တနင်္လာနေ့တွင်လည်း "ဘာသာရေးနှင့်စပ်၍ မရှင်းလင်းတဲ့အချက်အလက်များ မေးပါရစေ"ဆိုပြီး ဗုဒ္ဓဘာသာဝင်ဟုတ်သူရော မဟုတ်သူတို့ပါ ဝိသုဒ္ဓါရုံတိုက်သစ်သို့ တော်တော်များများ ရောက်လာကြသည်၊ အသီးသီး ဒွိဟဖြစ်ရာ မေးကြ မြန်းကြ လျှောက်ထားကြ၏၊ ဆရာတော်က ဖြေကြားရသည်၊ ထိုပွဲတွင် ရန်ကုန်မြို့ တံတားကလေး စိတ်ရောဂါအထူးကုဆေးရုံ ဆေးရုံအုပ်ကြီး ဦးနေဝင်းနှင့် ဂါဒီယံအင်္ဂလိပ်သတင်းစာ အယ်ဒီတာ ဦးစိန်ဝင်းတို့က အများဆုံး မေးလျှောက်ကြ၏။

အခြားပုဂ္ဂိုလ်များကလည်း မေးလျှောက်ကြသည်၊ သူတို့ သိမြင်ထားသော သိပ္ပံအမြင်ဖြင့် ဗုဒ္ဓဘုရားရှင်၏ အဘိဓမ္မာက မည်သို့ ဆိုထားသည်ကို သိလို၍ မေးလျှောက်ကြခြင်း ဖြစ်၏၊ ဆရာတော်ကလည်း တစ်ဆစ်ချင်း တစ်ဆစ်ချင်း ပိုင်း၍ တစ်ထုံးချင်း တစ်ထုံးချင်း ဖြည်ကာ ဝမ်းမြောက်စွာ ဖြေကြားတော်မူသည်။

အဘိဓမ္မာသဘောတရားတို့ကို ဖြေကြားဖို့မှာ လွယ်ကူလှသည် မဟုတ်ပါချေ၊ ယခုမှ စာအုပ်ကို ပြန်လှန်ကြည့်နေဖို့လည်း အခွင့်အခါ မဟုတ်ပေ၊ ယခု မေး၍ ယခုချက်ချင်း ကျေနပ်ပြေလည်အောင် ဖြေနေရခြင်း ဖြစ်သည်၊ ဆရာတော်မှာ အသင့်သွေးထားသောဓားဖြစ်၍သာ လိုအပ်သောအချိန်အခါ၌ အသင့်ခုတ်ဖြတ်ပိုင်းလွှားနိုင်ခြင်း ဖြစ်ပေ၏။

စိတ်အကြောင်း ရုပ်အကြောင်း, စိတ်၏ အဖြစ်အပျက် မြန်လွန်းလှပုံ, သေပြီးနောက်ဘဝကူးပုံအကြောင်း, ကမ္မသတ္တိအကြောင်း, စိတ်ဝေဒနာအကြောင်း, စိတ်ဖြင့် ညှို့၍ အတိတ်ဘဝဖြစ်စဉ်များကို စုံစမ်းပုံအကြောင်း, သေခါနီး သတိထားစရာအချက်များ စသည်တို့ကို မေးလျှောက်ကြသည်။

ဆရာဝန်ကြီး ဦးနေဝင်းသည် စိတ်ဘက်ဆိုင်ရာနှင့် ဦးနှောက်အာရုံကြောဆိုင်ရာ သိပ္ပံပညာရပ်များကို ပြည်တွင်းပြည်ပ ဆေးတက္ကသိုလ်ကြီးများမှ နှစ်ပေါင်းများစွာ သင်ယူတတ်မြောက်ထားပြီးဖြစ်၏၊ သိပ္ပံအမြင်ဖြင့် သဘောပေါက်ထားပြီးဖြစ်၏၊ သို့သော်လည်း ခဲကပ်နေသော နေရာများတွင် ဗုဒ္ဓအဘိဓမ္မာက မည်သို့ ဟောပြထားသည်ကို သိလို၍ မေးလျှောက်နေခြင်း ဖြစ်လေသည်။

ဆရာတော်ကလည်း ဗုဒ္ဓအဘိဓမ္မာသဘောကို ညက်ညောနေသည့်အလျောက် ဒိုးဒိုးဒေါက်ဒေါက် လိုရင်းရောက်အောင် ကောက်ကာငင်ကာ တစ်ခုချင်း တစ်ခုချင်း ရှင်း၍ ရှင်း၍ ဖြေကြားသွားတော်မူပါသည်၊ စိတ်ဝင်စားဖွယ် အလွန်ကောင်းလှပါ၏။

## စိတ်တွေ ရုပ်တွေ ဖြစ်ပျက် ဖြစ်ပျက်

ထိုမေးခွန်းပေါင်းများစွာမှ စိတ်ဝင်စားဖွယ် မေးခွန်းတစ်ခု၏ အဖြေကို နမူနာထုတ်ပြလိုပါသည်၊ "ဒီဘဝကနေပြီး စုတိစိတ်ကျတဲ့အခါ စိတ်နဲ့ ရုပ်တွေဟာ နောက်ဘဝများသို့ မည်သို့ မည်ပုံ ကူးပြောင်းလိုက်ပါသွားပါသလဲဘုရား, သိပါရစေ"ဟု မေးလေရာ ဆရာတော်က...

"သိပ်မေးဖို့ကောင်းတာပေါ့, မေးလဲ မေးထိုက်တယ်၊ လေ့လာလဲ လေ့လာဖို့ ကောင်းပါတယ်၊"ဟု ပြောဆိုလက်ခံကာ ဖြေကြားတော်မူ၏၊ မေးလိုတာက "ဒီဘသက စိတ်တွေ ရုပ်တွေ နောက်ဘဝကို ကူးပြောင်းသွားသလား, ဘယ်လိုလုပ်ပြီးတော့ နောက်ဘဝကို ကူးစက်သွားပါသလဲ, ဒီလို မေးလိုရင်း မဟုတ်လား"

"တင်ပါဘုရား"

"ဘုန်းကြီးတို့ ခုနတုန်းက စိတ်တွေ "ဖြစ် ပျက်, ဖြစ် ပျက်" ပြောခဲ့တယ် မဟုတ်လား၊ ရုပ်တွေလည်း ဖြစ် ပျက်, ဖြစ် ပျက်ပဲ၊ ဒါကို ပထမဆုံး လက်ခံမခံ, ဒါ အရေးကြီးပြန်တယ်၊ ဟုတ်တယ်၊ ဖြစ်ပြီး ပျက်, ဖြစ်ပြီး ပျက်ပဲ၊ လက်ဖျောက်တစ်ချက်တီးချိန်ကလေးမှာပဲ စိတ်တွေဟာ ကုဋေတစ်သိန်းမက ဖြစ်ပြီး ပျက် အပြောင်းအလွဲ ရှိတယ်၊ ရုပ်တစ်ချက်မှာ စိတ်က ၁၇ ချက်လောက် အဖြစ်အပျက်မြန်တယ်ဆိုတော့ လက်ဖျောက်တစ်ချက်တီးချိန်မှာ ရုပ်ပေါင်း ဘယ်လောက် အဖြစ် အပျက်ရှိရမယ်ဆိုတာလဲ သင်္ချာသမားတွေက တွက်လို့ရ,ရမယ်။

အဲဒါ လက်ခံလို့ရှိရင် ခုန်ကျော်ပြီး ပြောလိုက်တော့မယ်၊ ဒကာတို့ရဲ့ ခုဖြစ်နေတဲ့စိတ်ဟာ တစ်နာရီလောက်ဆိုရင် ဘာမှ အဆက်အစပ် မရှိတော့ဘူး၊ တစ်မျိုး ပြောင်းသွားပြီ၊ လက်ဖျောက်တစ်ချက် (မျက်စိတစ်မှိတ်)ခန့် အချိန်ကလေးမှာတောင် ကုဋေတစ်သိန်းမက ပြောင်းသေးတာ၊ တစ်နာရီလောက်ဆိုတော့ ပြောင်းချင်တိုင်း ပြောင်းသွားပြီပေါ့၊ အခုမကျေနပ်လို့ ဒေါသစိတ်ဖြစ်နေ, မျက်နှာကြီးနီရဲလို့, ဟော-တောင်းပန်လိုက်တော့ ကျေနပ်ပြီး ချက်ချင်း သောမနဿစိတ်တွေ ပြောင်းသွား, မျက်နှာလည်း ကြည်သွား၊ အပြောင်းအလွဲ မြန်တယ်။

## ကမ္မသတ္တိတွေ ကျန်ရစ်တယ်

ဘုန်းကြီးတို့ စောစောတုန်းက ကံအကြောင်းကို ပြောခဲ့တယ်နော်၊ လူဖြစ်ဖို့ရာ ပထမဆုံး ကံကြောင့် ရုပ်ကလာပ် ၃ ခုစတည်ရတယ်လို့ ပြောခဲ့ပါတယ်, ခု ဘုန်းကြီးက ဒကာတို့ကို နားလည်အောင် ရှင်းပြနေတဲ့အချိန်မှာ ဘုန်းကြီးရဲ့ သန္တာန်မှာ စိတ်နှင့် စေတသိက်တွေ များစွာဖြစ်လျက် ရှိတယ်၊ အဲဒီ စေတသိက်တွေထဲမှာ သူများထက် ဗျာပါရကဲပြီး လှုံ့ဆော်တတ်တဲ့ စေတနာဆိုတာ ပါတယ်၊ အဲဒီ စေတနာကို **"ကံ"**လို့ ခေါ်ပါတယ်၊ ကံဆိုတာ "ကမ္မ"က လာတာ၊ ကမ္မဆိုတာ အလုပ်၊ ကြောင့်ကြ ဗျာပါရ အလုပ်ပဲ၊ ကိုယ်မှု နှုတ်မှု စိတ်မှုတို့၏ ကြောင့်ကြ ဗျာပါရ အလုပ်ပဲ။

ထပ်ပြောပါဦးမယ်, ကောင်းတဲ့ ကိစ္စဖြစ်ဖြစ်, မကောင်းတဲ့ကိစ္စဖြစ်ဖြစ်, သိသိသာသာနှင့် စိတ်ပါလက်ပါ ပြုလုပ်လိုက်တဲ့ ကိုယ်မှု နှုတ်မှု စိတ်မှုတို့ဟာ သာမန် အမှတ်တမဲ့စိတ်များနဲ့ မတူဘူး၊ အဲဒီကိစ္စတွေမှာ ဗျာပါရကဲနေပါတယ်၊ အဲဒီစိတ်ရဲ့ ဗျာပါရ (စိတ်ရဲ့လှုံ့ဆော်မှု)ကိုပဲ အဘိဓမ္မာသဘောအားဖြင့် "စေတနာစေတသိက်" လို့ ခေါ်ပါတယ်၊ အဲဒီ စေတနာကို(အဲဒီဗျာပါရကဲပြီး အလုပ်လုပ်တတ်တဲ့စေတနာကို) "ကမ္မ-ကံ-အမှုသည်-လက်သည်" လို့ ခေါ်ပါတယ်၊ (စေတနာဟံ ဘိက္ခဝေ ကမ္မံ ဝဒါမိ) တဲ့၊ ငါဘုရားက စေတနာကို ကံလို့ အမည်ပေးတယ်တဲ့၊ ရှေ့ဆက်ကြဦးစို့၊ လက်ဖျောက်တစ်ချက်တီးချိန်မှာ စိတ်စေသိက်တွေ ကုဋေတစ်သိန်းမက ဖြစ်ပျက်တယ်ဆိုတော့ ဒီကံတွေဟာလဲ ကုဋေတစ်သိန်းမကပဲ ဖြစ်ပျက်မှာပဲ၊ ဟုတ်ပေဘူးလား၊ ဖြစ်ပြီး ပျက်ကုန်တယ်၊ မရှိတော့ဘူး၊ "ဘာမျှ မကျန်တော့ဘူးလား"ဆိုတော့ ဒီမှာ သိပ်လိုက်ဖို့ ကောင်းတာပေါ့၊ သိပ်လေ့လာဖို့ ကောင်းလာတယ်၊ သိပ်စိတ်ဝင်စားဖို့ ကောင်းလာတယ်။

"ပြီးပြီးပျောက်ပျောက် အကုန်ချုပ်ကုန်သလား" ဆိုတော့, မဟုတ်ဘူး၊ သတ္တိတွေ ကျန်ရစ်တယ်၊ ကမ္မသတ္တိတွေ ကျန်ရစ်တယ်, ကမ္မသတ္တိတွေကို ချန်ထားခဲ့ပြီးမှ စေတနာတွေ ချုပ်ပျောက်ကုန်တယ်၊ သတ္တိဆိုတာ အရာဝတ္ထုမဟုတ်ဘူးနော်၊ အခိုးအငွေ့လဲ မဟုတ်ဘူး၊ အဲဒါကြောင့် ခန္ဓာကိုယ်မှာလဲ လေးပြီး ကျန်ရစ်ခဲ့တာမျိုး မဟုတ်ဘူး၊ သတ္တိဟာ သတ္တိပဲ။

## ဘယ်မှာတည်ပြီး ကျန်ရစ်သလဲ

လက်ဖျောက်တစ်ချက်တီးချိန် (မျက်စိတစ်မှိတ်ခန့်အချိန်)မှာ ကုဋေတစ်သိန်းမက ချုပ်ကုန်တယ်ဆိုတော့ သတ္တိတွေလဲ ကုဋေတစ်သိန်းမက ကျန်ရစ်မှာပေါ့၊ အများကြီးပဲ၊ သတ္တိတွေ အများကြီး၊ အများကြီး၊ အဲဒီ သတ္တိတွေ ဘယ်မှာ တည်ပြီး ကျန်ရစ်တာတုံး၊ ဒီလိုမေးရင် "တည်တယ်လဲ မဟုတ်ဘူး၊ တည်တယ်ဆိုရင် အရာဝတ္ထုမှီ တည်တာ ဖြစ်ရမှာပေါ့။

ဒီဘဝရယ် ရှေးဘဝရယ် ဘဝပေါင်းများစွာက ပြုလာတဲ့ ကမ္မသတ္တိတွေ၊ ဝါသနာအရ ပြုထားတဲ့ စိတ်တွေရဲ့ ဓာတ်သတ္တိတွေ၊ အဲဒီ သတ္တိတွေက အရာဝတ္ထုလားဆိုတော့ "အရာဝတ္ထုမဟုတ်ဘူး၊ သတ္တိပဲ၊ အစွမ်းပဲ၊ အရှိန်အဝါပဲ၊ အဲဒါတွေ ရှိပြီး ကျန်ရစ်တယ်" တစ်ခုခုအပေါ် ရပ်တည်ပြီး ကျန်ရစ်တာတော့ မဟုတ်ဘူး၊ ရုပ်နာမ်ခန္ဓာတွေ ချုပ်ပျောက်ကုန်တဲ့အခါ ဆိုင်ရာပုဂ္ဂိုလ်အတွက် အရှိန်အဝါအစွမ်းသတ္တိတွေ ရှိပြီးကျန်ရစ်ခဲ့တယ်။

နေဦး၊ ဒီလို သတ္တိတွေ ရှိပြီး ကျန်ရစ်ခဲ့ပုံကို ဘုန်းကြီး တစ်ခုပြောဦးမယ်၊ ကလေးတစ်ယောက်ဟာ ငယ်ငယ်တုန်းက မူလတန်းမှာ ပညာသင်ခဲ့တယ်၊ စာတွေ ကျက်ခဲ့ရတယ်၊ ကြီးလာတော့ အဲဒီစာတွေ မေ့ပျောက်ကုန်ပါတယ်၊ မရတော့ပါဘူး၊ ဒါပေမယ့် အဲဒီစာနဲ့ဆိုင်တဲ့ အသိဉာဏ်တွေက ကျန်ရစ်တယ်၊ ဒေါက်တာတို့လဲ ဒီအတိုင်းပဲ။

တက္ကသိုလ်တွေမှာ ဆေးပညာနှင့်ပတ်သက်တဲ့ စာတွေ သင်ခဲ့ကြတယ်၊ ခုတော့ အဲဒီစာတွေ အကုန်မရတော့ပါဘူး၊ ဒါပေမယ့် အဲဒါနဲ့ပတ်သက်တဲ့ အသိဉာဏ်တွေကတော့ ကျန်ရစ်တယ်၊ ဒီအတိုင်းပဲ သတ္တိတွေရှိပြီး ကျန်ရစ်တယ်၊ ကျန်ရစ်လို့လဲပဲ အသိဉာဏ်တွေ စုမိ ပေါင်းမိပြီး ဉာဏ်တွေရင့်ရင့်လာတာပေါ့၊ ဒါဟာ အဲဒီပုဂ္ဂိုလ်အတွက် အရှိန်အဝါတွေ သတ္တိတွေ လိုက်နေတယ်လို့ သိနိုင်တာပဲ၊ ဒီသဘောပဲ ဗုဒ္ဓမြတ်စွာ ပါရမီတွေ ဖြည့်တယ်ဆိုတာ လေးအသင်္ချေနှင့်ကမ္ဘာတစ်သိန်း ဖြည့်မှ ဖြည့်တာ၊ လေးအသင်္ချေနှင့်ကမ္ဘာတစ်သိန်းဆိုတာ အလွန့်အလွန်ကြာညောင်းတဲ့ အချိန်ကာလ၊ ဒီအတွင်းမှာ ဒါနပါရမီတို့၊ သီလပါရမီတို့၊ ခန္တီပါရမီတို့၊ ပညာပါရမီတို့ စသည် ဖြည့်ခဲ့တယ်၊ လှူခဲ့တန်းခဲ့တယ်၊ ပစ္စည်းအဖြစ်နဲ့တော့ ကုန်ခဲ့ ပျောက်ခဲ့ပြီ၊ ဒါပေမယ့် သတ္တိအရှိန်အဝါတွေ ကျန်ခဲ့တယ်၊ လိုက်လာတယ်။

ပညာဉာဏ်ကြီးဖို့လဲ ပါရမီတွေ ဖြည့်ခဲ့တယ်၊ ဖြည့်ရင်း ဖြည့်ရင်းနဲ့ သတ္တိတွေ အရှိန်အဝါတွေ စုမိ ပေါင်းမိပြီးတော့ နောက်ဆုံးမှာ ဉာဏ်တုံး ဉာဏ်ခဲကြီးလို ဖြစ်လာတယ်၊ ဒီအခါမှာ သဗ္ဗညုတာဆိုတဲ့ ဉာဏ်ကြီးဖြစ်လာပြီး ဘုရားအဖြစ်သို့ ရောက်လာတော့တာပဲ၊ အဲလိုပဲ သတ္တိတွေဟာ လိုက်လာတယ်။



ဗုဒ္ဓအဘိဓမ္မာအမြင်ကို ဟောကြားနေစဉ်

## ဟိုဘက်ဘဝကို ဘယ်လို ကူးသွားသလဲ

ကဲ-အစက မေးခွန်းကို ပြန်ကောက်ကြစို့၊ အခု သေခါနီး ရောက်သွားပြီ၊ သူ့ဘဝမှာ ပြုလုပ်ခဲ့တဲ့ ကံတွေ အများကြီး ရှိတယ်၊ သတ္တိတွေလဲ အများကြီး ကျန်ရစ်တယ်၊ ကံတွေက အကျိုးပေးမယ်၊ အဖော် ကောင်းကောင်း ရရင် အကျိုးပေးဖို့ အသင့်ပဲ၊ ကောင်းတဲ့ ကံတွေက ကောင်းကျိုးပေးမယ်၊ မကောင်းတဲ့ ကံတွေကလဲ မကောင်းကျိုး ပေးမယ်၊ သူဦး ကိုယ်ဦး အသင့်စောင့်နေကြတာပဲ။

ဒီအချိန်အခါမှာ ဆွေမျိုးတွေက ငိုကြွေးကြရင် အဲဒီဘက် စိတ်ရောက်သွားပြီး မကောင်းတဲ့ ကံတွေက အခွင့်ရလို့ မကောင်းကျိုးပေးတော့မှာပဲ၊ စုတိစိတ်ရဲ့ ရှေ့နားက ကပ်နေတဲ့ ထင်လာတဲ့ အာရုံအလိုက် အကျိုးပေးရတာ၊ ဒီအချိန်ဟာ သိပ်အရေးကြီးတယ်၊ အာရုံကောင်းအောင် ပြင်ပေးဖို့ လိုတယ်၊ စုတိစိတ်ရဲ့ ရှေ့နားက ထင်လာတဲ့ အာရုံဟာ အကျိုးပေးဖို့ရာ အကူအညီပဲ၊ ရှေ့နားက ထင်နေတဲ့ အာရုံက ကောင်းတဲ့ အာရုံဆိုရင်တော့ အာရုံအလိုက် ကောင်းကျိုးပေးမှာပဲ၊ အဲဒီလို သေပေါက် သေဝမှာ ကပ်နေတဲ့ ကံက အကျိုးပေးမြဲပဲ၊ ဘာလို့လဲ? သူက အခွင့်အသာဆုံးမို့ပဲ၊ ဥပမာ-နွားခြံမှာ နွားတွေ အများကြီး သွင်းလှောင်ထား၊ ခြံတံခါးကို ဖွင့်လိုက်ပြီ ဆိုရင် ခြံဝမှာ ရှိတဲ့ နွားက "နွားအိုကြီးပင် ဖြစ်ပါစေ" အလျင် ထွက်သလိုပဲ၊ လွယ်လွယ်နဲ့ အခွင့်သာတဲ့ ကံက အကျိုးပေးတာပဲ။

တချို့မှာ ဒီဘက်ဘဝက ဓားခုတ်ရာကြီးနဲ့ သေတော့ ဟိုဘက်ဘဝမှာ ဓားခုတ်ရာ ပါနေတယ်၊ ဒါ ဘယ်လိုလဲဆိုတော့ သူ့စိတ်က ဒီဓားခုတ်ရာကို စွဲနေတယ်၊ စိတ္တဇရုပ်က ဓာတ်ချင်းဆက်နေတယ်၊ ဒီရုပ်တွေကို ဟိုဘက်ဘဝ သယ်သွားတာတော့ မဟုတ်ဘူး, မဟုတ်ပေမယ်လို့ ဓာတ်ချင်းက ဆက်နေတော့ ဟိုဘက်ဘဝမှာ ဓားခုတ်ရာ ပါနေတယ်၊ ဒီဘက်ရုပ်တွေ ဟိုဘက်ကို တိုက်ရိုက်ကူးသွားတာ တော့ မဟုတ်ဘူး။

ဟိုဘက်ဘဝ မပြောနဲ့ ဒီဘက် ဘဝမှာတောင် မကူးဘူး၊ ဥပမာ-၁၀ နှစ်သားအရွယ် မှာ ရှိနေတဲ့ ဓားခုတ်ရာဟာ ၁၁ နှစ်သားကျတော့ မူလဓားခုတ်ရာ မပါတော့ဘူး၊ ဒါပေမယ့် မြင်နေရတဲ့ ဓားခုတ်ရာက ရုပ်သစ်ပဲ၊ အသစ် အသစ် ဖြစ်ပေါ်လာတဲ့ ဓားခုတ်ရာပဲ။

ဓာတ်ချင်း ဆက်စပ်နေတော့ ရုပ်ချင်း ကျေးဇူး ပြုလိုက်တဲ့အတွက် ဒီက အရာလေးနဲ့ဆိုင်တဲ့ ရုပ်ကလေးတွေပဲ ဟိုမှာသွားပြီးတော့ ဖြစ်တယ်၊ အဲဒီ အတိုင်းပဲ ဟိုဘက်ဘဝမှာ ဓားခုတ်ရာ ထင်နေတာလဲ ရုပ်သစ်ပဲ၊ စိတ်ဓာတ်က ဆက်ရက်ဖြစ်နေလို့ ဟိုဘက်မှာ ရုပ်သစ်ဖြစ်သွားတာ၊ ဒီနည်းတူ ကူးသွားတာပါ၊ ဒီဘက်ဘဝက စိတ်တွေ ရုပ်တွေ ဟိုဘက် ဘဝကို တိုက်ရိုက် ကူးသွားတာ မဟုတ်ပါဘူး၊ ကဲ- ဒီမေးခွန်းက ဒါလောက် ဆိုရင် ပြေနိုင်ပါပြီ။

## ဆရာရှိနေလို့ တပည့်ကြီးပွားသလို

"တပည့်တော် တစ်ခုမေးပါရစေဦးဘုရား, စိတ်ဟာ ဦးနှောက်မှာ ဖြစ်တယ်လို့ နိုင်ငံခြားပါရဂူများက ဆိုကြပါတယ်၊ ဗုဒ္ဓဘာသာမှာတော့ ဟဒယဝတ္ထု "နှလုံး"မှာ ဖြစ်တယ်လို့ ကြားဖူးပါတယ်, ဘယ်လို ပါလဲ ဘုရား, ရှင်းပြတော်မူပါ" ဒကာတစ်ဦးက မေးမြန်းလျှောက်ထား၏၊ အားလုံးက နားစွင့်နေကြသည်၊ ဆရာတော်ကလည်း မညည်းမညူ ကြည်ကြည် ဖြူဖြူ လက်ခံဖြေတော်မူသည်။

"သူတို့ အယူအဆကို ဘုန်းကြီးက မသိနိုင်ဘဲနဲ့ တော့ မရှင်းနိုင်ပါဘူး၊ ဘုန်းကြီးတို့လဲ ကိုယ့်နည်းနဲ့ ကိုယ်ပေါ့လေ၊ ဟဒယဝတ္ထုမှာ မှီတယ်ဆိုပေမယ့် အကောင်အထည် မှီသလို မှီနေတာတော့မဟုတ်ပါဘူး၊ ခုနတုန်းက ဘုန်းကြီးပြောပြီးပြီ မဟုတ်လား၊ ပဋိသန္ဓေကတည်းက ဟဒယဆိုတဲ့ ဝတ္ထုရုပ် ပါလာတယ်၊ အဲဒီ ပဋိသန္ဓေနေတုန်းက ဘယ်မှာ ဒီလို ကိုယ်တွေ ရင်တွေ ဘာတွေ ရှိဦးမလဲ၊ အဲဒီတုန်းက ဟဒယဝတ္ထု ပါလာတယ်၊ အဲဒီကတည်းက အသိစိတ်ဆိုတာ ဖြစ်ပြီ၊ အဲဒီ ဝတ္ထုရုပ်တွေ ရှိလို့မို့ စိတ်ဖြစ်နိုင်တာ၊ ဝတ္ထုရုပ် မရှိရင် ကာမဘုံ ရူပဘုံမှာ စိတ်မဖြစ်နိုင်ဘူး။

ဥပမာ-ဆရာရှိလို့ တပည့်ကြီးပွားတယ်၊ ဆရာ မရှိရင် တပည့် မကြီးပွားနိုင်ဘူး၊ မိဘရှိလို့ သားသမီး ကြီးပွားတယ်၊ မိဘမရှိရင် သားသမီး မကြီးပွားဘူး၊ ဒီသဘောမျိုးပါ၊ တစ်ခါ တပည့်က ဆရာကို

မှီနေတယ်၊ "မှီနေတယ်"ဆိုတာ ကပ်ပြီး မှီနေတာမျိုး မဟုတ်ဘူး၊ "ဘုန်းကြီးဘယ်မှ မသွားနဲ့နော်၊ တပည့်တော် လဲသွားလိမ့်မယ်"လို့ ကပ်ပြီး မှီတာမျိုး မဟုတ်ဘူး။

ဆရာက ဟိုကျောင်းမှာ နေတယ်၊ တပည့်က ဒီကျောင်းမှာ နေပေမယ်လို့ ဆရာကို မှီနေတာပဲ၊ ဆရာ့စကားကို နားထောင်နေတာပဲ၊ မိဘကို သားသမီးက မှီတာလဲ ဒီအတိုင်းပါပဲ၊ တစ်အိမ်စီ နေကြပေမယ့် မိဘစကား ဆုံးမဩဝါဒ များကို နားထောင်လိုက်နာနေရင် မှီတာပဲ၊ ရင်ခွင်ထဲ မှီနေတာမျိုး မဟုတ်ဘူး၊ စကားသဘောအားဖြင့် ဖြစ်အောင် ပြောတာ။

အဲဒါကြောင့် ဟဒယဝတ္ထုရုပ်ကို မှီတယ်ဆိုတာ ဟဒယဝတ္ထု၏ အပေါ်မှာ စိတ်က တည်နေတာမျိုး မဟုတ်ဘူး၊ ဟဒယဝတ္ထုရှိလို့ စိတ်ဖြစ်နိုင်တာ၊ နိဿယပစ္စည်းအနေနဲ့ ပြောတာ၊ သူရှိလို့ စိတ်ဖြစ်နိုင်တာ၊ သူမရှိရင် ကာမ ရူပဘုံမှာ စိတ်မဖြစ်နိုင်ဘူးလို့ ဆိုလိုတာ၊ ဒါကို မှီတယ်လို့ ပြောကြတာ။

## ခေါင်းမပါတဲ့ ကဗန္ဓိပြိတ္တာ

ဘုန်းကြီးကတော့ ဦးနှောက်ပဲဖြစ်ဖြစ်၊ ဘာဖြစ်ဖြစ် ဦးနှောက်ထဲ စိတ်တွေက ရောက်သွားတာတော့ မဟုတ်ပါဘူး၊ ဦးနှောက်ရှိလို့ စိတ်တွေဖြစ်တာပဲ၊ ဒီလိုသာ ယူဆရမယ်လေ၊ ပြီးတော့ ဟဒယဝတ္ထုရှိလို့ စိတ်တွေ ဖြစ်နိုင်တာပဲ၊ မရှိရင် မဖြစ်နိုင်ဘူး၊ စိတ်တွေက ဦးနှောက်ထဲမှာ မှီနေတာမဟုတ်ဘူး၊ ဟဒယဝတ္ထုထဲမှာ မှီနေတာလဲမဟုတ်ဘူး၊ ဦးနှောက်တို့ ဟဒယဝတ္ထုတို့ ရှိလို့သာ စိတ်တွေ ဖြစ်တာ၊ အဲလို မှတ်သားပါ။ ဘုန်းကြီးအနေနဲ့ကတော့ ဦးနှောက်လို့ ပုံမှန် မယူဆဘူး၊ ဘာဖြစ်လို့တုန်းဆိုတော့ ဘုန်းကြီးတို့ စာပေတွေထဲမှာ "ကဗန္ဓိပြိတ္တာ"ဆိုတာရှိတယ်၊ ခေါင်းမပါဘူး၊ အကုသိုလ်ကံအရ အစကတည်းက ခေါင်းမပါတာ၊ ခေါင်းမပါရင် ဦးနှောက်လဲ မပါဘူးပေါ့၊ ဒါပေမယ့် အဲဒီပြိတ္တာမှာ စိတ်တော့ ဖြစ်နေတာပဲ၊ လှုပ်လှုပ်ရှားရှား ရှိနေတာပဲ။

ဘုန်းကြီးတို့ ယူဆတာကတော့ ဟဒယဝတ္ထု၊ ဗုဒ္ဓမြတ်စွာကဆိုရင် ဝတ္ထုလို့သာဟောတာပါ၊ ဟဒယလို့ မဟောဘူး၊ ဓမ္မသင်္ဂဏီမှာ ဝတ္ထုရုပ်လို့ ဟောတယ်၊ မှီရာဝတ္ထုရုပ်၊ ဒီဟဒယမှာတို့ ဘာတို့ဆိုတဲ့ဥစ္စာက ကျမ်းစာတွေက သတ်မှတ်ပြီးထားတာ၊ ဘုန်းကြီးတို့ကလဲ တစ်ခါတလေ "ဒိန်းခနဲ"ဆိုရင် ဒီရင်ထဲက ထိခိုက်တုန်လှုပ်ပြီး နည်းနည်း အသိ မြန်သလိုလို ဘာလိုလို ရှိနေတယ်မဟုတ်လား၊ ဒါကြောင့် လက်ခံထားတယ်၊ လက်ခံထားတာ မထားတာက အရေးမကြီးပါဘူး၊ ဒါပြဿနာ မဟုတ်ပါဘူး၊ ဦးနှောက်ပဲဖြစ်ဖြစ်၊ ဝတ္ထုရုပ်ပဲဖြစ်ဖြစ် လိုရင်းကတော့ အကုသိုလ်မဖြစ်ဖို့၊ ကုသိုလ်တွေဖြစ်ဖို့၊ တရားနှလုံးသွင်းဖို့ ဒါတွေကသာ ပဓာနပါ၊ ကဲ-ဒီမေးခွန်းလဲ ဒါလောက်ဆိုရင် ကျေနပ်လောက်ပါပြီ၊ ရှေ့ဆက်ပြီး မေးချင်တာ မေး၊ အခွင့်ကြုံတုန်းမှာ၊ ဒီလို ကြုံဖို့ မလွယ်ဘူး၊ ဘုန်းကြီးကလဲ အများသိစေချင်လွန်းလို့ စေတနာထားပြီး ဖြေကြားနေပါတယ်"။ ဤသို့စသည်ဖြင့် ထိုရက်ကဆိုလျှင် ဒါယကာတို့က မေးလိုက်၊ ဆရာတော်က ဖြေလိုက်နှင့် ထိုင်ရာမထ အမေး အဖြေတို့မှာ အလွန်စိတ်ဝင်စားဖွယ် ကောင်းလှပါသည်၊ မေးခွန်းပေါင်း ၃၇ ခုနှင့် အဖြေပေါင်း ၃၇ ခု ရှိပါ၏၊ ဆရာတော်ကား မေးတိုင်းမေးတိုင်း ဖြေကြားတော်မူ၏၊ နည်းနည်းမေးလျှင် နည်းနည်းဖြေကြား၍ များများမေးလျှင် များများဖြေကြားတော်မူသည်၊ မေးခွန်းက တိမ်တိမ်မေးလျှင် တိမ်တိမ်ပင်ဖြေကြားတော်မူ၍ နက်ရှိုင်းစွာမေးလျှင် နက်ရှိုင်းစွာပင်ဖြေကြားတော်မူသည်၊ တီးတိုင်းမည်သောစည်ကြီးသဖွယ် ဖြစ်တော့သတည်း။ **(ယခုအခါ ထိုအမေးအဖြေတို့မှာ အများသိဖွယ်ကောင်းသဖြင့် တိပ်ခွေများမှ ကူးယူပြီးလျှင် "သိပ္ပံအမြင်နှင့် ဗုဒ္ဓအဘိဓမ္မာအဖြေများ"ဟူသောခေါင်းစီးဖြင့် စာအုပ်ငယ်တစ်အုပ် ပြုလုပ်ထွက်ပေါ်နေပါပြီ။)**



# ရန်ကုန်မှ အမှတ်တရ အပြန်ခရီး

## မိမိအတွက် တာဝန်မတက်စေနဲ့

၁၃၃၅ ခု ပြာသိုလဆန်း ၉ ရက် (၁-၁-၇၄)နေ့ကား ရန်ကုန်မှ ပြန်မည့်နေ့ ဖြစ်၏၊ မလွဲသာသောကိစ္စကြောင့် ခရီးထွက်ရပါက မြန်မြန် ပြီးလျှင် မြန်မြန် ပြန်တတ်သည်၊ ဆရာတော်မှာ ရန်ကုန်ကို ရောက်လျှင် ရထားလမ်းပေါ်ရှိ ပွဲ့တန်းဆာကို ဝင်မြဲဖြစ်၏၊ "မိဘလူကြီးတွေ လက်ထက်ကစပြီး ရင်းနှီးခဲ့ကြတဲ့ သားသမီးများ, တူ-တူမများက ဆွေမျိုးလို ခင်မင်ကြည်ညိုနေကြ၍တစ်ကြောင်း, သူတို့တွင် အချို့က အသက်ကြီးကြပြီ ဖြစ်၍ တောင်ငူမြို့ကို မလာနိုင်ကြ၍တစ်ကြောင်း ဤအကြောင်းတို့ကြောင့် ခရီးကြုံခိုက် အပြန်မှာ ရထားနှင့် ဖြစ်သလိုပြန်ပြီး ပွဲ့တန်းဆာကို ဝင်မယ်၊ ပွဲ့တန်းဆာကို ဝင်ပြီးရင် တောင်ငူမှာလဲ ဆရာတော်များရော ဒါယကာ ဒါယိကာမများပါ ရင်းနှီးသူတွေ ရှိနေတော့ ဝင်ရဦးမှာပဲ" ဟု ဆရာတော်က အမိန့်ရှိသည်။

ထိုအခါ ဒါယကာများက "ရထားနဲ့ပြန်ရင် ပင်ပန်းပါလိမ့်မယ်ဘုရား, ဒါကြောင့် ရန်ကုန်ကနေ ပွဲ့တန်းဆာနဲ့ တောင်ငူကို ကားနှင့်လိုက်ပို့ပါ့မယ်၊ အလိုရှိသလောက် နေပြီးမှ ရန်ကုန်ကို ပြန်လာ, ရန်ကုန်ကမှ လေယာဉ်ပျံနဲ့မန္တလေးကို ပြန်ပါဘုရား" ဟု လျှောက်ကြ၏၊ ဆရာတော်က "ဒီအစီအစဉ်ဟာ ဘုန်းကြီးရဲ့ ချမ်းသာမှုအတွက်သာ ကြည့်ရင်တော့ အားလုံးကောင်းပါတယ်၊ ဒါပေမယ့် ခုနေခါမှာ ကားပစ္စည်းတွေကလဲ ရှားပါး, ဓာတ်ဆီကလဲ ဈေးတွေ အလွန်ကြီး၊ ပြီးတော့ ခက်လဲ ခက်နေတဲ့ဥတ္တာ, ဘုန်းကြီးတစ်ပါး ချမ်းသာစေလိုတဲ့အတွက် ဒီလောက် အကုန်အကျတွေ မခံစေချင်ပါဘူး၊ မိမိတစ်ပါး အတွက် တာဝန်တွေ မတက်စေချင်ဘူး၊ ဒါကြောင့် မီးရထားနှင့်ပဲ ဖြစ်သလို ပြန်ပါ့မယ်"ဟု မိန့်တော်မူနေ၏။

## ပျားပိတုန်းပမာ ကျင့်သုံးပါ

ဆရာတော်က သူပြောနေကျ, ကိုယ်တိုင်ကျင့်သုံးနေကျမှုအတိုင်း မိန့်မြွက်နေခြင်း ဖြစ်၏၊ ထိုမှုမှာလည်း အခြား မဟုတ်, ဘုရားဆုံးမတော်မူသောမှုပင် ဖြစ်ပါသည်။

* **ယထာပိ ဘမရော ပုပ္ဖံ, ဝဏ္ဏဂန္ဓမဟေဌယံ၊**
**ပလေတိ ရသမာဒါယ, ဧဝံ ဂါမေ မုနီ စရေ။**

ပျားပိတုန်း(လိပ်ပြာ)တို့သည် ပန်းဝတ်ရည်ကို စုပ်ယူကြသောအခါ ပန်းပွင့်ကိုလည်းကောင်း, အဆင်း အနံ့ကိုလည်းကောင်း ပုံပန်း မပျက်ယွင်းစေဘဲ ဝတ်ရည်ကို ယူ၍ အလိုရှိရာသို့ ပျံသွားကြသကဲ့သို့ ထို့အတူ ရဟန်းသည်လည်း ဒါယကာ ဒါယိကာမများ အပေါ်၌ ကျင့်သုံးရာ၏။

"ဒါယကာ ဒါယိကာမများထံမှ ပစ္စည်းလေးပါးကို ခံယူရာတွင် အတိုင်းအရှည်ပမာဏကို သိပါ၊ ရသမျှ မယူပါနှင့်၊ အလှူခံရသည့်တိုင်အောင် သူတို့၏ စီးပွားရေးအခြေအနေ ပျက်ယွင်း မကုန်ပါစေနှင့်"ဟု ဘုရားရှင်က မိန့်မြွက်တော်မူလိုရင်း ဖြစ်သည်၊ ဆရာတော်ကလည်း ဤမှုအတိုင်း ကျင့်သုံးပြောဆိုနေခြင်း ဖြစ်သည်။

## နောင်ရေးကို မျှော်တွေးငဲ့ကွက်

ထိုအခါ ဒါယကာများက "ဒီလိုဆိုရင် တပည့်တော်တို့ အကုန်အကျမများအောင် အစိုးရဆီက ကားကြီးတစ်စင်းကို ငှားပြီး ဒါယကာ ဒါယိကာမများ ဝိုင်းအုံလိုက်ပို့ကြပါမယ်ဘုရား"ဟု တစ်မျိုးပြင်၍ လျှောက်ကြပြန်သည်၊ ထိုအခါမှ ဆရာတော် လက်မခံနိုင်စရာပို၍ဖြစ်သွားတော့၏၊ အကုန်အကျထက် ပို၍ အရေးကြီးသော အကြောင်းဖြစ်သွားတော့သည်၊ ဆရာတော်က ရှင်းပြပါ၏။

"ယခုခေတ်မှာ ဒါယကာ ဒါယိကာမ အသိုင်းအဝိုင်းပြုပြီး လူပြိန်းတွေ အထင်ကြီးအောင် ဟန်ဆောင်နေတဲ့ပုဂ္ဂိုလ်တွေ အတော်များနေပြီ။

* ဓမ္မပဒပါဠိတော် (ပုပ္ဖဝဂ်, ၄၉-ဂါထာ)

သူတို့ရောက်တဲ့နေရာမှာ အကြိုအဆိုတွေ မများများအောင် ကိုယ်တိုင်ရော၊ အတွင်းလူများကရော အလွန်ကြိုးစားနေကြပါတယ်၊ အဲဒီ အသိုင်းအဝိုင်းကြီးကျယ်မှုကြောင့် ပညာနည်းတဲ့ လူတစ်စုကလဲ ရောယောင်လိုက်ပါကုန်ကြရော။

ဘုန်းကြီးကိုယ်တိုင် အဲဒီပုဂ္ဂိုလ်မျိုးဖြစ်သွားရင် နောင်လာနောက်သားတချို့က ဘုန်းကြီးရဲ့လုပ်ဟန်ကို အတုလိုက်ပြီး ဒီလိုပဲ အသိုင်းအဝိုင်းများအောင် လုပ်ရစ်ကြပါလိမ့်မယ်၊ အဲဒီနောင်လာနောက်သားတို့ အတုလိုက်မှာစိုး၍ ယခုလို ခမ်းခမ်းနားနားစီစဉ်မှုကို ဘုန်းကြီးက မလိုက်လျောပါရစေနဲ့"ဟု အိမ်ရှိတော့၏။

ထိုအခါ ဒါယကာများက "နောင်လာ နောက်သားတွေ အတုလိုက်မှာ စိုးလို့"ဆိုသော အကြောင်းပြကို အလေးအနက်စဉ်းစားပြီး ထပ်မံ မလျှောက်ကြတော့ပေ၊ လက်လျှော့လိုက်ကြပေတော့သည်၊ သို့သော် "ဆရာတော် လမ်းမှာ ဆင်းရဲမှာပဲ"ဟု ညည်းညူပြကြသေး၏။

ဆရာတော်ကလည်း "ခန္ဓာကိုယ်တော့ ဆင်းရဲမှာပါပဲ၊ ဒါပေမယ့် စိတ်မဆင်းရဲပါဘူး၊ လူအများခံစားရတဲ့ ဆင်းရဲကို ကိုယ်လဲ ခံစားရမှ ဗဟုသုတရပါတယ်" ဟု ပြန်လည် မိန့်မြွက်နေသည်။

## တစ်စုံတစ်ခုလိုလို သံသယရှိသတဲ့

ထိုနေ့ကား ပြန်မည့်နေ့နံနက် ဖြစ်၏၊ ဒေါက်တာမျိုးတင့်က "ဆရာတော့်ကျန်းမာရေးကို စစ်ဆေးကြည့်ပါရစေ"ဆိုပြီး စမ်းသပ်စစ်ဆေးပေးသည်၊ ကြီးကြီးကျယ်ကျယ် ရောဂါဟူ၍ မတွေ့ရ၊ အခြေအနေကောင်းပါ၏၊ သို့သော် "အဆုတ်မှာ တစ်စုံတစ်ခု သံသယရှိသည်"ဟု ပြောသည်၊ ပြန်မည့်ဆဲဆဲဖြစ်၍ လာရောက်ကန်တော့ကြသော ဒါယကာဒါယိကာမများလည်း ရှုပ်နေကြ၏။

ထို့ကြောင့်ဒေါက်တာလည်း အေးအေးဆေးဆေး ထပ်မံစမ်းသပ်နေချိန်မရ၊ သို့ဖြစ်၍ "မန္တလေးရောက်မှ (သူနှင့် ရင်းနှီးသော) ဆရာဝန်ကြီး ဦးထွန်းသင်နှင့် ထပ်မံ စမ်းသပ်ပါဦးဘုရား"ဟု လျှောက်ထားလိုက်တော့သည်၊ ဆရာတော်က ရန်ကုန်ကို ကြွမလာခင်ကပင်

"ရန်ကုန်ရောက်ရင် မိမိထက် အသက်ကြီးတဲ့ ဒါယကာကြီး ဒါယိကာမကြီးများရဲ့ အိမ်ကိုသာ သွားမယ်၊ အခြားအိမ်တွေကို မသွားဘူး"လို့ စိတ်ကူးထားမိပါသတဲ့၊ သို့သော်လည်း အကြောင်းအမျိုးမျိုးကြောင့် "ဩဝါဒပေးရုံကလေး ခဏကြွပေးပါ၊ ချီးမြှင့်ပါ"ဟူ၍လည်းကောင်း၊"ဖူးပါရစေ၊ ဖူးမြော်အပူဇော်ခံ ကြွရောက်ချီးမြှောက်ပေးပါ"ဟူ၍လည်းကောင်း တောင်းပန်ကြ၏၊ ဤသို့ဖြင့် ဟိုအိမ် ဒီအိမ် ဟိုဌာန ဒီဌာနသို့ ရောက်ရလေတော့၏၊ ဩဝါဒလည်း ပေးရတော့သည်၊ တချို့နေရာမှာ တရားကိုလည်း အနည်းငယ် ဟောပေးရတော့၏။

(ဝိုင်အမ်ဘီအေ)အသင်းတိုက်ကြီးကမူ ဆရာတော် ရောက်မလာမီကပင် "ဘယ်နေ့ ဘယ်ရက်မှာ တရားဟောလိမ့်မည်"ဟု သေချာပေါက် ကြေညာထားကြ၏၊ ဆရာတော်ကိုလည်း ကြိုတင်လျှောက်ထားခြင်း မရှိ၊ မလျှောက်ထားခြင်းသည်ကလည်း မွေးချင်းလို ရင်းနှီးနေကြ၍ ဆရာတော့်အပေါ် သံယောဇဉ်လည်း ကြီးနေကြပြီဖြစ်၍ ယုံကြည်နေသောကြောင့် ဖြစ်သည်၊ ဆရာတော်ကလည်း ရင်းနှီးစွာပင် လက်ခံ ခွင့်ပြုတော်မူရလေ၏။

ဤသို့ဖြင့် ဟို ဌာန ဒီဌာနသို့ ကြွရ ဟောရ ပြောရ ဩဝါဒပေးရသောကြောင့် ခန္ဓာကိုယ် ပင်ပန်း၍ ကျန်းမာရေး အနည်းငယ် နွမ်းခြင်း ဖြစ်ကောင်း ဖြစ်ပါလိမ့်မည်၊ စိုးရိမ်ဖွယ်ကား ရှိမည် မဟုတ်ပါ။

## သံသရာခရီးအတွက် ပြင်ဆင်ဖို့ သူတို့မေ့

ဤသို့ဖြင့် ရထားစီးရန် ရန်ကုန်ဘူတာကြီးသို့ လာခဲ့ကြတော့၏၊ ထိုအချိန်က ရထားအဝင်အထွက်များ မမှန်ကြပေ၊ ထို့ကြောင့် ဘူတာကြီးထဲမှာပင် ၄ နာရီလောက် စောင့်လိုက်ရတော့၏၊ ထိုင်စရာဟူ၍လည်းတော်သလိုသာ ဖြစ်သည်၊ ဤသို့ကြွလာသောအခါတွင်လည်း ဆရာတော်က ရသမျှနှင့် ကျေနပ်တတ်၏၊ ရောင့်ရဲတင်းတိမ်တတ်သည်။

ထိုအချိန်တွင် မြို့ပတ်ရထားများ ဘူတာကြီးသို့ ဝင်လာကြပုံ၊ ပြန်ထွက်သွားကြပုံ၊ အခြားဆင်ခြေဖုံးမြို့ကလေးများမှ ရထားများဆိုက်လာကြပုံ၊

ပြန်ထွက်တော့မည့်ဟန်ပြင်နေပုံ, ခရီးသည်များက အပြေးအလွှား ရထားပေါ်တက်၍ နေရာကောင်း ရရန် နေရာဦးကြပုံ အလုံးစုံကို ဆရာတော် မြင်နေရသည်။

ဆရာတော်ကား "မြင် ကြား နံ စား ထိ သိ" အာရုံရှိသမျှကို အလွတ်ပေးလေ့ မရှိ၊ စုံစမ်းလေ့ ဝေဖန်လေ့ ရှိ၏၊ ထို့ကြောင့် စဉ်းစားမိသည် ဆို၏။

"ဪ-သတ္တဝါတွေဟာ ခဏကလေး သွားရမည့် ခရီး, တစ်နေ့ တစ်ရက်မျှ သွားရမည့် ခရီး အတွက်ပင် ချမ်းချမ်းသာသာ နေထိုင်သွားချင်၍ နေရာဦးကြသည်၊ ကြိုတင်ပြင်ဆင်ကြသည်၊ ရှည်လျားစွာ သွားရမည့် သံသရာခရီးအတွက်တော့ အဘယ့်ကြောင့် မပြင်ဆင်ဘဲ မေ့၍ နေကြလေသနည်း" ဤသို့ အတွေးအမြင် ပေါ်ခဲ့ တမ်းခဲ့ရသည် ဟူ၏။

ဤသို့လျှင် အတွေးအမြင်ဖြင့် အချိန်ကုန်ကာ ညနေပိုင်းရောက်မှ စီးကြရမည့် ရထားကြီးပေါ် လာတော့သည်၊ အထက်တန်းနှစ်ယောက်ခန်းတစ်ခု၌ ကပ္ပိယဒါယကာကြီး ဦးကျော်ဝင်းနှင့်အတူ လိုက်ပါကြရတော့၏၊ ပွဲတန်ဆာကို ည ၈ နာရီခန့်လောက်မှ ရောက်ကြရတော့သည်။

ပွဲတန်ဆာတွင်လည်း လိုလေသေးမရှိ ပြုစုကြရှာပါ၏၊ ရက်ကြာကြာနေပါရန် တောင်းပန်ကြသည်၊ သို့သော်လည်း "အလုပ်မရှိဘဲ နေလို့ မဖြစ်ဘူး"ဟု ငြင်း၍ နောက်တစ်နေ့ နေ့ဆွမ်းစား အပြီးတွင် တောင်ငူသို့ ခရီး ဆက်ခဲ့ကြပြန်သည်။

## သံသရာအတွက်ပြင်ရန် အမှန်လိုအပ်

တောင်ငူသို့ သွားရာတွင်ကား မြင်မြင်ထင်ထင် အချိန်ကောင်းရောက်ဖို့ရာ လော်ကယ်ရထားကြီး တစ်စီးသာ ရှိ၏၊ ထိုရထားကြီးမှာလည်း အများအားဖြင့် အထက်တန်းတွဲပါလေ့ မရှိပေ၊ ထို့ကြောင့် ကားဖြင့် ပို့ဖို့ စီမံကြ၏၊ ထိုအစီအစဉ်ကိုလည်း ဆရာတော်က လက်မခံသဖြင့် လော်ကယ်ရထားကြီးဖြင့်ပင် လိုက်ဖို့ ပြင်ကြသည်။

ရထားကြီး ဆိုက်လာသောအခါ ထိုရထားကြီးမှာလည်း တိုးဝှေ့စီးနိုင်ပါမှ ထိုင်ဖို့နေရာကလေးရရန် အနိုင်နိုင် ဖြစ်၏၊ ထို့ကြောင့် စာတိုက်တွဲမှာ ရုံပိုင်ကြီး ပြောပေး၍ အတော်အတန် နေသာထိုင်သာ နေရာကလေးကို ရလိုက်သည်၊ စာတိုက်ဗိုလ်က သူထိုင်သော ကုလားထိုင်ကလေးကို ချပေး၏၊ ပါလာသော နှစ်ထပ်သက်န်းကြီးကို လေးခေါက်ခေါက်ပြီး ဖင်ခုထိုင်၍ လိုက်လာခဲ့သည်။

နောက်နောင် ဘူတာများသို့ ရောက်သောအခါတွင် တဖြည်းဖြည်း ခရီးသည်တွေ များလာ၍ တွဲတိုင်းလိုလို ကျပ်တည်းလာကြ၏၊ ထို့ကြောင့် စာတိုက်တွဲနှင့် နားလည်မှုယူကြကာ စာတိုက်တွဲ၌လည်း ပြည့်ကျပ်လာတော့၏၊ ပြည့်ကျပ်လာသည်ထက် အထက်ပိုင်းမှာ ရေနံဆီဈေးတွေ ကောင်းနေ၍ တင်လာကြသော ရေနံဆီပုံးတို့က ဟိုချောင်သည်ကြားမှာ များပြားလှသည်။

ရထားကြီး လှုပ်တိုင်းယိမ်းတိုင်း ရေနံဆီတွေက အနီးရှိ လူတွေကို ပက်နေသလို ဖြစ်၏၊ ရေနံဆီတွေက ဆရာတော်ကိုလည်း ချမ်းသာမပေးပါ၊ ထောင့်တစ်ခုတွင် တော်သလို နေရာယူကာ လိုက်ပါလာရရှာသော ကပ္ပိယဒါယကာကြီး ဦးကျော်ဝင်းကိုလည်း သကြန်ရေပက်သလို အပက်ခံနေရသည်၊ "တောင်ငူသို့ မြန်မြန် ရောက်ပါစေ"ဟုသာ ဆုတောင်းနေရတော့၏။

တောင်ငူ မြို့ထောင့်ကျောင်းရောက်လျှင် ရုံထားသော သင်္ကန်းနှင့် နှစ်ထပ်သင်္ကန်းကြီးတို့မှာ ရေနံဆီစော်တွေ နံနေ၍ ချက်ချင်း အလျှော်ခိုင်းရပါတော့သည်၊ ဤကဲ့သို့ ဆင်းရဲမည်ကို ကြိုတင်မြင်ကြ၍ပင် ရန်ကုန်က ဒါယကာများက "ကားဖြင့် လိုက်ပို့ပါမည်"ဟု လျှောက်ကြခြင်း ဖြစ်၏၊ သို့သော်လည်း သာသနာရေးကို တွေး၍ ငြင်းပယ်ခဲ့သည်၊ ဆရာတော်က ကျေနပ်မှုကို ဤသို့ ဖော်ထုတ်ပြပါ၏၊ "ယခုကဲ့သို့ ခန္ဓာကိုယ်ဆင်းရဲပေမယ့် စိတ်ကတော့ လုံးလုံး မဆင်းရဲပါဘူး၊ သံသရာခရီးအတွက် မဆင်းရဲအောင် ကြိုတင်ပြင်ဆင်ဖို့ ဉာဏ်တွေသာ ဖြစ်ပေါ်ခဲ့ရပါတယ်၊ မိမိနှင့် စပ်သော ပုဂ္ဂိုလ်များလည်း သံသရာမှာ မဆင်းရဲအောင် ကိုယ်ကျင့်သီလ လုံခြုံရန် သတိပေးဖို့ ဉာဏ်တွေသာ ဖြစ်ခဲ့ရပါတယ်" ဟု အမိန့်ရှိလိုက်သည်။

## သံသရာခရီးမှာ မျက်နှာမငယ်ဖို့

ထိုသို့ အမိန့်ရှိလိုက်သောအခါ ဝိုင်းအုံရောက်လာကြသော ရဟန်းရှင်လူ ဒါယကာ ဒါယိကာမ ပရိသတ်တို့မှာ တုန့်ခနဲ ငြိမ်သက်သွားကြ၏၊ ပြောကြ ဆိုကြ နှုတ်ဆက်ကြသော အသံတို့လည်း ရပ်ဆိုင်းသွားကြသည်၊ "ဆရာတော်က ဘာကို အမိန့်ရှိလိုပါလိမ့်မည်နည်း"ဟု မျှော်လင့်နေကြ၏။

တောင်ငူကို မကြွလာသည်မှာလည်း ကြာပြီ ဖြစ်၍ ဆရာတော်ကို မျှော်နေခဲ့ကြသည်၊ ဆရာတော့်စကားကို စောင့်စားနေကြ၏၊ ထိုအခါ ဆရာတော်က အမိန့်ရှိသည်။

"ဘာလို့လဲဆိုတော့... ယခု မီးရထားစီးရင်း သံဝေဂဉာဏ်တွေလဲ များစွာဖြစ်ခဲ့ရပါတယ်၊ သတ္တဝါတွေဟာ ရထားစီးခရီးသွားတွေလိုပဲ သံသရာမှာ သွားနေကြရတာပဲလို့၊ ခရီး မဆုံးမချင်း သွားနေရဦးမှာပဲ၊ ပြီးတော့ ဒီရထားတွေမှာ အမြန်ရထားနဲ့ အနှေးရထား၊ လူစီးရထားနဲ့ ကုန်တင်ရထား အမျိုးမျိုး ရှိကြသလို လူတွေမှာလဲ အဆင့်အတန်း အမျိုးမျိုးပါပဲလားလို့၊ တချို့ရထားတွေက မီးနဲ့ရေနဲ့ ပြည့်ပြည့်စုံစုံ ချမ်းချမ်းသာသာ သွားရလို့၊ တချို့ရထားတွေကျတော့လဲ ချို့ချို့တဲ့တဲ့ပဲ၊ လူတွေလဲ ဒီအတိုင်းပါပဲလား၊ တစ်ခါ အမြန်ရထားကြီးက အနှေးရထားတွေကို ကျော်ကျော်သွားသလို ပါရမီရှိတဲ့သူတွေက ပါရမီနည်းတဲ့သူတွေကို ကျော်ကျော်သွားကြတာပါပဲလားလို့ အဲဒီလို တွေးရင်းနဲ့ သံဝေဂဉာဏ်တွေ များစွာ ဖြစ်ရပါတယ်၊ ဒါကြောင့် ဘုန်းကြီးနဲ့စပ်တဲ့ ဒါယကာ ဒါယိကာမများ သံသရာခရီးမှာ မျက်နှာမငယ်ကြရအောင် ငါးပါးသီလ လုံခြုံအောင် နေကြပါလို့၊ ရှင်ရဟန်းများကတော့ ကိုယ့်ဆိုင်ရာသီလကို လုံခြုံကြပါစေလို့ ဘုန်းကြီးက သတိပေးပါတယ်၊ သီလပြီးရင် ဒါနကိုလဲ စွမ်းအားရှိသမျှ လက်မလွှတ်ကြစေနဲ့၊ ပြီးမှ ဗုဒ္ဓါနုဿတိတို့ မေတ္တာတို့ကို အရင်းခံပြီး ဘာဝနာကို သွားရမှာပါ"။

ဤသို့လျှင် ရောက်လာသော ရှင် လူ ရဟန်း ဒါယကာ ဒါယိကာမများကို နှုတ်ဆက်စကား ဩဝါဒများ ပေးတော်မူသည်၊ အားလုံးပရိသတ်တို့လည်း ငြိမ်သက်စွာနာယူကြ၏၊ နောက်ထပ်၍လည်း ပရိသတ်တို့ တဖွဲဖွဲရောက်လာကြသည်၊ တောင်ငူတွင်လည်း ပွဲြန်တန်ဆာကဲ့သို့ပင် လိုလေသေးမရှိ အရေးပါကြ ပြုစုကြပါ၏၊ သို့ရာတွင် ဆရာတော်မှာ စာချ-စာရေးအလုပ် တစ်ခုခု မရှိလျှင် မနေတတ်သလို ဖြစ်၍ တစ်ညမျှသာ နေခဲ့သည်၊ နောက်တစ်နေ့ နံက် ၁၁ နာရီတွင် ရန်ကုန် မန္တလေး နေ့ချင်းပေါက် ရထားဖြင့် ပြန်ခဲ့ရာ ည ၇ နာရီမှာ မန္တလေးသို့ ချောမောစွာ ပြန်လည် ရောက်တော့သည်။

## ကျန်းမာရေး ထပ်မံ စစ်ဆေးကြခြင်း

### သာသနာပြုလုပ်ငန်း ပညာစွမ်းဖြင့် ကူညီ

အညာဒေသ၏ ရာသီဥတုမှာ ပူချိန်ကျလျှင် ကျက်ကျက်လောင်အောင် ပူ၍ အေးချိန်ကျပြန်လျှင် ခိုက်ခိုက်တုန်အောင် အေးတတ်ပြန်သည်၊ ယခု ပြာသိုလဖြစ်၍ ကျွဲသတ္တဝါ၏ ချိုအဖျားပင် စိမ့်နေအောင် အေးသောလ ဖြစ်၏၊ ထိုသို့ အေးသောအခါများတွင် ကျန်းမာရေးကို ပို၍ ဂရုစိုက်ရစမြဲ ဖြစ်၏၊ ဆရာတော်မှာ ရန်ကုန်မှ ဒေါက်တာမျိုးတင့် မှာလိုက်သည်ကို သတိရနေဟန် ရှိပါသည်၊ ထို့ကြောင့် မကြာ မကြာ လာ၍ ဆရာတော်၏ ကျန်းမာရေးကို စစ်ဆေးစမ်းသပ်ပေးနေသော ဒေါက်တာညိုညိုကို ပြောပြတော့၏၊ ထိုအခါ ဒေါက်တာညိုညိုက မန္တလေးမှာ ဓာတ်မှန်ရိုက်ကြည့်ဖို့ စီစဉ်တော့သည်။

ဓာတ်မှန်ဌာနမှ ဆရာဝန်ဒေါ်ဌေးမြင့်ကလည်း မဟာဂန္ဓာရုံတိုက်ကို ကြည်ညိုရင်းစွဲရှိသူ ဖြစ်၍ အရေးတယူ ဂရုတစိုက် ဆောင်ရွက်ပေးဖော်ရ၏၊ ဓာတ်မှန်ရိုက်ပြီးလျှင် ပါရဂူဆရာဝန်ကြီးဦးထွန်းသင်ကို စစ်ဆေးခိုင်းရပါမည်၊ ဤကိစ္စနှင့်စပ်၍ စာချရင်း ဆရာတော်က ဤသို့ အမိန့်ရှိဖူးသည်။

"ဓာတ်မှန်ရိုက်ပါဆိုလို့ တစ်နေ့တုန်းက မန္တလေးသွားပြီး ဓာတ်မှန်ရိုက်ရတယ်၊ ဘုန်းကြီးကျန်းမာရေးအတွက်ပေါ့၊ ရင်ရော၊ ကျောရော ရှေ့ဘက် နောက်ဘက် ရိုက်ယူတယ်၊ ခန္ဓာကိုယ်အတွင်းက ကလီစာတွေကို ဓာတ်မှန်ရောင်ခြည်နဲ့ ဓာတ်ပုံရိုက်ယူတယ်ပေါ့၊ အတွင်းထဲ ဘာတွေ ဖြစ်နေတယ်ဆိုတာ ...

ဖလင်ပြားပေါ်မှာ လာထင်နေတယ်၊ သူတို့ရဲ့ သိပ္ပံအတတ်ပညာဟာလဲ ချီးကျူးစရာပါပဲ"။

ဤသို့ ဆရာတော်က မှတ်ချက်ချသည်၊ ဓာတ်မှန်ခန်းတွင် ဓာတ်မှန်ရိုက်ကြစဉ်က ဒေါက်တာညိုညိုနှင့် ဒေါက်တာဒွေးမြင့်တို့သည် တပည့်လက်သားများနှင့်အတူ အလွန်ကြောင့်ကြောင့်ကြကြ ရှိကြပေ၏၊ အသက်ရှုသည့်လက္ခဏာကို တွေ့ရသည်ဆိုပြီး ချက်ချင်း ထပ်မံပြန်၍ ရိုက်ကြပြန်သည်၊ ရိုက်ပြီး၍ ဆရာဝန် ဒါယိကာမနှစ်ဦးလုံး စကားပြော၍မှ မဆုံးမီ "ဆရာဝန်ကြီးဦးထွန်းသင်"ဆိုတာ လာနေကျမဟုတ်ဘဲလျက် ရောက်လာပါတော့သည်။

ဤသို့ပင်လျှင် ယခုနောက်ပိုင်း၌ ဆရာတော်မှာ အသင့် အသင့်ဖြစ်၍နေသော ကိစ္စကလေးပေါင်းများစွာကို တွေ့တွေ့နေရ၏၊ "သာသနာစိတ်ပြင်းပြ၍ သီလဖြူစင်အောင် နေသောကြောင့် လူတွေမကနတ်တွေကပါကူညီနေသလား"ဟုထင်မှားရလောက်အောင် ဖြစ်ဖြစ်နေတော့သည်၊ ထို့ကြောင့် ဆရာတော်ကလည်း လူရော နတ်ပါ မေတ္တာပို့၍ နေ့စဉ်အမျှဝေနေခြင်း ဖြစ်၏၊ သာသနာပြုလုပ်ငန်းကို ကိုယ့်အစွမ်းနှင့်ကိုယ် ကူညီကြခြင်း ဖြစ်ပါလိမ့်မည်။

## လူသွားလမ်းပေါ် တံတွေးမထွေးနဲ့

ဒေါက်တာညိုညိုတို့၊ ကျောင်းအမ သန်းသန်းတို့၊ ညွန့်ညွန့်တို့ ဆိုသည်မှာ ဆရာတော် မန္တလေးနေစဉ် ဗုဒ္ဓဘာသာမိန်းကလေးကျောင်း၌ တရားဟောရစဉ်က တပည့်သူငယ်မကလေးများ ဖြစ်ကြ၏၊ ကျောင်းအုပ်ချုပ်ရေးအဖွဲ့က "ကလေးများကို ဆုံးမ ဟောပြောနိုင်မည့် ဆရာတော် တစ်ပါးပါးကို ပင့်၍ တနင်္ဂနွေနေ့တိုင်း ဩဝါဒ နာယူရန်" ဟူသော ဆုံးဖြတ်ချက်အရ ဆရာတော်က ဟောရ ပြောရ ဆုံးမခဲ့ရသည်။

ထို့ကြောင့် ထိုစဉ်ကပင် ဆရာတော့်ကို "အဖေကြီး"လို့ အောက်မေ့ခဲ့ကြ၏၊ ထိုစဉ်က ဆရာတော် ဟောပြောဆုံးမခဲ့သော တရားခေါင်းစီးတို့ကလည်း စိတ်ဝင်စားဖွယ်ကောင်းလှပါသည်၊ ဆရာတော်၏ မှတ်တမ်းစာအုပ်တွင် ပြန်၍ ကြည့်ပါက ယခုပင် ထင်၍ ကျန်လျက်ရှိပါသေး၏။

ထိုခေါင်းစီးတို့ကား...

"လူသွားလမ်းပေါ် တံတွေး မထွေးနဲ့"

**"စည်းကမ်းရှိကြပါ" "ကြမ်းနင်း မပြင်းရ" "မိန်းကလေးဆိုတာ သိမ်မွေ့ရတယ်" "ရေကို ကုန်လောက်ရုံသာ ခပ်သောက်ပါ" "ညအိပ်ရာဝင် အနန္တငါးပါးကို ဦးချပြီးမှ အိပ်ပါ" "စိတ်ကို ဖြူစင်ဖြောင့်မတ်အောင် ထားရတယ်" "မဲ့ရွဲ့ငြူစူ မကောင်းမြောင်းရ" "မျှတတဲ့ စိတ်ထားပါ" "အရာရာ ကျေနပ်တတ်ရမယ်" "လိမ်လိမ်မာမာ နေကြပါ" "လုံ့လဝီရိယ ရှိရတယ်" "ထူးချွန်အောင် ကြိုးစားပါ" "ရည်ရွယ်ချက်ပန်းတိုင် ရှိရတယ်" "ဖွဲမလျှော့ရ" "ကြိုးစားလျှင် မိန်းမသားလဲ ဘာမဆို ဖြစ်နိုင်တယ်"**

ဤသို့ စသော ခေါင်းစီးကလေးများကို တွေ့နိုင်ပါသည်၊ ဟောသောအခါ ခေါင်းစီးတစ်ခုကို မူတည်၍ ထိုနေ့အတွက် ကလေးများ မပျင်းရအောင် စိတ်ရွှင်လန်းအောင် ပုံပြင်ကလေးများ၊ ဇာတ်တော်ထဲမှ ဝတ္ထုကြောင်းကလေးများဖြင့် တန်ဆာဆင်ကာ တစ်ခါဟောလျှင် ၄၅ မိနစ် (သို့မဟုတ်) တစ်နာရီခန့်မျှ ဟောမြဲဖြစ်သည် ဆို၏။

## ဟောပြောမှု၏ သတ္တိစွမ်းအား

အသက်အရွယ် နုနယ်ပျိုမျစ် ၇ နှစ် ၈ နှစ် ၉ နှစ် ၁၀ နှစ်သာသာအရွယ် သူငယ်မကလေးတို့သည် ဆရာတော်၏ ဟောပြောချက်ထဲမှာ မိန်းမောခဲ့ကြ၏၊ ဆရာတော်က စည်းကမ်းရှိဖို့အကြောင်း ဟောပြောလျှင် စည်းကမ်းရှိချင်လာ၏၊ လိမ်မာဖို့အကြောင်းပြောလျှင် လိမ်မာချင်လာ၏၊ စိတ်ကောင်းရှိဖို့ပြောလျှင် သူတော်စင်မလေးတွေ ဖြစ်ချင်လာကြ၏၊ လုံ့လရှိဖို့ ပြောပြန်လျှင် ယခုပင် တက်တက်ကြွကြွ ဖြစ်လာကြ၏၊ "ကြိုးစားလျှင် မိန်းမသားလဲ ဘာမဆို ဖြစ်နိုင်တယ်"ဟု ပြောသောအခါ သူတို့တစ်တွေ အားတက်နေကြတော့သည်။

ဤသို့ဖြင့် ကိုယ်စီကိုယ်င ကြိုးစား၍ လာခဲ့ကြရာ အချို့က ဆရာဝန်မကြီးတွေ ဖြစ်လာ၏၊ အချို့က ကျောင်းဆရာမကြီးတွေ၊ အချို့က စစ်ဗိုလ်မကြီးတွေ၊ အချို့က အစိုးရဌာနကြီးတွေမှာ အရေးပါပါ အရာရှိတွေ ဖြစ်လာကြ၏၊ အချို့ကတော့ ကုန်သည် ပွဲစား၊

ဤသို့အားဖြင့် ဟောပြောမှု၏ အသီးအပွင့်တို့သည် ကိုယ်စီ ကိုယ်စီ ဖြစ်ထွန်းဝေစီ၍ လာကြကုန်တော့သည်၊ ထိုအထဲမှ ဒေါက်တာညိုညိုတို့က ဆရာဝန်မကြီးတွေ ဖြစ်လာပြီး ဆရာတော့်ကို အဖေကြီးလို ပူဇော်သောအားဖြင့် ... ကျန်းမာရေးအတွက် အထောက်အပံ့ ပြုလာခဲ့သည်၊ သန်းသန်းတို့ ညွန့်ညွန့်တို့ကား စီးပွားရေးနယ်ပယ်မှ ဖြစ်၍ မဟာဂန္ဓာရုံသို့ လာကြပြီးလျှင် တိုက်ကျောင်းကြီးများ ဆောက်လုပ်လျက် ကျောင်းအမကြီးတွေ ဖြစ်လာကြသည်၊ ကျောင်းဆရာမကြီးတွေ ဖြစ်သူတို့ကား သူတို့ ဆိုင်ရာကျောင်းတွေမှာ အုပ်ချုပ်သင်ပြလျက်, စစ်ဗိုလ်မကြီးများနှင့် အစိုးရအရာရှိများ ဖြစ်သူတို့ကလည်း တိုင်းပြည်အတွက် ကိုယ့်ဆိုင်ရာဌာနတွေမှာ အလုပ်လုပ်လျက်, အမှုထမ်းလျက် ရှိကြသည်။

## ကိုယ်စိတ်ရွှင်သော ကျန်းမာပြည့်ဖြိုး

ရိုက်ထားသော ဆရာတော်၏ ဓာတ်မှန်များကို ဆရာဝန်ကြီး ဦးထွန်းသင်က ဦးဆောင်၍ ဆရာဝန်မများပါ စစ်ဆေးကြသောအခါ "အဆုတ်မှာ အအေးမိတဲ့ဒဏ် နည်းနည်းရှိတယ်"ဟု ပြောကြားပါ၏၊ ရောဂါမကြီးပါ၊ စိုးရိမ်စရာမဟုတ်ပါဟု လျှောက်ထားကာ တစ်ကြိမ်လျှင် တစ်လုံးကျနှင့် တစ်နေ့ လေးကြိမ်သောက်ရန် ဆေးနှစ်ပုလင်း ရှစ်ရက်စာ ပေးကြ၏၊ "ဤဆေးကုန်လျှင် ထပ်ပြီး ဓာတ်မှန်ရိုက်ပါဦး"ဟုလည်း မှာလိုက်ကြသည်။

ထို့ကြောင့် ဆေးကုန်၍ နောက်တစ်ကြိမ် ဓာတ်မှန်ရိုက်ကြည့်သောအခါ "ဘာရောဂါမျှ မတွေ့တော့"ဟု ပြောကြ၏၊ ရောဂါနှင့်ဆိုင်ရာ ဆေးများကိုလည်း ထပ်မံ မပေးကြတော့ပေ၊ ဤသို့လျှင် ဆရာဝန်များ၏ အကူအညီဖြင့် သက်တော် ၇၄ နှစ်ပြည့် ခါနီးတွင် ကျန်းမာရေး အထူးကောင်းလျက်ရှိပေသည်၊ ကျန်းမာရေးကောင်းလျက်ရှိသည့်အတိုင်း မှန်မှန်ပို့ချနေသော ဝိဘင်းပါဠိတော်, သမ္မောဟဝိနောဒနီအဋ္ဌကထာနှင့် မူလဋီကာတို့ကလည်း ကုန်လုနီးပြီ ဖြစ်၍ အထူးဝမ်းမြောက်သည်ဟု မိန့်တော်မူနေ၏၊ ထို့ပြင် ကျောင်းတိုက်အလယ်က စေတီတော်ကြီးမှာ ရွှေချထားသော နေရာအချို့ပျက်နေ၍ ပြုပြင်မွမ်းမံခြင်း, ဆရာတော် ရဟန်းထပ်စဉ်တုန်းက ရေစက်ချ၍ လှူသည့် စာချတိုက်ကလည်း အုတ်အမိုးတွေက ယိုနေ၍ အမိုးအားလုံးကို ဖျက်ပစ်ပြီး သွပ်မိုးရန် စီမံနေခြင်းတို့ဖြင့် ဆရာတော်၏ သန္တာန်မှာ ကုသိုလ်စိတ်တွေ အထပ်ထပ် ဖြစ်ကာ ပို၍ ကျန်းမာဖို့ အထောက်အကူတွေ ဖြစ်လာပါတော့သည်။

# နိုင်ငံခြားသာသနာပြုရေးနှင့် အရှင်ဇနကာဘိဝံသ

## အမြစ်တွယ်သော သာသနာပြုနည်း

တစ်ချိန်တုန်းက မန္တလေးမြို့ စိန်မေရီကျောင်းမှာ အစည်းအဝေးကြီးတစ်ခု ပြုလုပ်ဖူး၏၊ ၁၃၁၆ ခုနှစ်လောက်က ဖြစ်၏၊ နိုင်ငံခြား သာသနာပြုကိစ္စအတွက် ဖြစ်၏၊ နာမည်ကြီးဆရာတော်များ ပါဝင်ကြသည်၊ လေ့လာရေးသံဃာတော်များနှင့် လူကြီးလူကောင်းများလည်း တက်ရောက်ကြ၏၊ အခမ်းအနားမှူးက စက်ရှင်တရားသူကြီး ဦးထွန်းဖေ၊ သဘာပတိက ဒေါက်တာဆိုနီ၊ အစီအစဉ်အရ ဆရာတော်တစ်ပါးက အမိန့်ရှိသည်။

သာသနာပြုတယ်ဆိုတာ အမြစ်တွယ်သော သာသနာပြုနည်း, အမြစ်မတွယ်သော သာသနာပြုနည်း နှစ်မျိုးရှိပါတယ်၊ သမိုင်းကြောင်းအရပြောရရင် "သောဏုတ္တရာ မဟာထေရ်" စာပေသမိုင်းမှာ ထင်ရှားတော်မူကြတဲ့ အရှင်မြတ်နှစ်ပါးဟာ မြန်မာပြည်ဖွား တိုင်းရင်းသားများ မဟုတ်ကြပါဘူး၊ နိုင်ငံခြားသားတွေပဲ။

အဲဒီ အရှင်မြတ်များဟာ သူတို့ တိုင်းပြည်မှ မြန်မာပြည် အောက်ပိုင်း သထုံကို ခဲခဲယဉ်းယဉ်း လာပြီး သာသနာပြုခဲ့ကြတယ်၊ ပြုခဲ့တဲ့အတိုင်း ယနေ့အထိ မြန်မာပြည်မှာ ရှိနေတဲ့ သာသနာဟာ အဲဒီအရှင်မြတ်နှစ်ပါးသယ်ဆောင်လာတဲ့ သာသနာလို့ ဆိုနိုင်ပါတယ်၊ အောင်လဲ အောင်မြင်ပါတယ်။

ဒါကြောင့် ယနေ့ မြန်မာအမျိုးသားများဟာ ရှင်သာမဏေဘဝ မရောက်ဖူးသူ မရှိသလောက် ဖြစ်ခဲ့ပါတယ်၊ ရဟန်းတော်များဆိုတာလဲ သိန်းကျော်ဂဏန်းမှာ ရှိပါတယ်၊ ဒါဟာ အမြစ်တွယ်နိုင်အောင်ပြုနိုင်လို့ ဖြစ်ပါတယ်၊ ဒါ့ကြောင့် အမြစ်မတွယ်သော သာသနာပြုနည်းထက် အမြစ်တွယ်သော သာသနာပြုနည်းကို စဉ်းစားသင့်ကြောင်း တင်ပြလိုပါတယ်" ဟု မိန့်ဆို၍ နိဂုံးချုပ်လိုက်သည်။

## ဘာမြစ်မှ မတွယ်ပါဘူး

ဤသို့ ဆရာတော်တစ်ပါး အမိန့်ရှိပြီးနောက် အစီအစဉ်အရ နောက်တစ်ပါးက အမိန့်ရှိပြန်သည်၊ "သုတ္တနိပါတ်လာ ဗာဟိယဒါရုစီရိယ အမည်ရှိတဲ့ ပုဂ္ဂိုလ်တစ်ယောက်ဟာ သာမဏေလဲ မဟုတ်၊ ရဟန်းလဲ မဟုတ်ပါဘူး၊ ဒါပေမယ့် ရသင့်ရထိုက်တဲ့ တရားထူးကိုတော့ အပြည့်အဝ ရရှိသွားတာပဲ။

ဒါတွင် မကသေးဘူး၊ သူကွယ်လွန်သွားတဲ့အခါ သူ့ရုပ်အလောင်းကို ဘုရားရှင်ကိုယ်တော်တိုင်က "ရဟန်းတို့...ဗာဟိယဒါရုစီရိယရဲ့ အလောင်းကို ညောင်စောင်းဖြင့် ထမ်းခဲ့ကြ၊ မီးသဂြိုဟ်ကြရမယ်" လို့ မိန့်တော်မူပါတယ်၊ လူဝတ်ကြောင်ရဲ့အလောင်းကို ရဟန်းတွေက ထမ်းပြီး မီးသဂြိုဟ်ကြရတာပါ၊ အဲဒီမှာ သာမဏေဆိုတဲ့ သာသနာ့အမြစ်၊ ရဟန်းဆိုတဲ့ သာသနာ့အမြစ် ဘာတစ်ခုမှ မတွယ်ခဲ့ပါဘူး။

ပြီးတော့ ရှိပါသေးတယ်၊ ဘုရားရှင်ကိုယ်တော်မြတ် တာဝတိံသာသို့ တက်ပြီး အဘိဓမ္မာဒေသနာတွေ ဟောတုန်းက ကျွတ်တမ်းဝင်လိုက်ကြတဲ့ နတ်တွေ ဗြဟ္မာတွေ မရေတွက်နိုင်ဘူးလို့ အဆိုရှိပါတယ်၊ အဲဒီမှာလဲ ဘယ်သူမှ သာမဏေ သမဏေမတို့၊ ဘိက္ခု ဘိက္ခုနီတို့ ဖြစ်ကုန်တယ်လို့ စာမရှိပါဘူး။

အဲဒီလို မရှိရုံနဲ့ အဲဒီမှာ သာသနာအမြစ်မတွယ်ဘူးလို့ ဘယ်သူ ပြောနိုင်မလဲ၊ အမှန်မှာ သာသနာအမြစ်တွယ်တာ မတွယ်တာက ပမာနမဟုတ်ပါဘူး၊ လုပ်ငန်းခရီးရောက် မရောက်က ပမာနပါ၊ သူတို့ဆီမှာ ဒီက သာသနာ ရောက်သွားရင်ပဲ မနည်းဘူး။

သူတို့ သဘောကျရင် ဒီနည်းအတိုင်း သူတို့ဆီမှာလဲ ကျင့်နိုင်တာပဲ၊ ဒါမှ မဟုတ် ဒီလာပြီးတော့လဲ ကျင့်နိုင်တာပဲ။

ဘာတွယ်မှ ညာတွယ်မှတွေ မလိုပါဘူး"ဟူ၍ တင်ပြတော့သည်။

## တည်ငြိမ်တဲ့ ဣန္ဒြေလိုအပ်

အစီအစဉ်အရ တတိယမြောက် တင်ပြပြောဆိုမည့် ပုဂ္ဂိုလ်မှာ အမရပူရမြို့ မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသပင် ဖြစ်၏၊ ဆရာတော်ကား သူ့မူဟန်အတိုင်း အေးအေးဆေးဆေးပင် ကြည်လင်ပီသစွာ ပြောပြပါသည်။

"တပည့်တော် ကြားဖူးတဲ့ အဖြစ်အပျက်ကလေးတစ်ခုကို တင်ပြပါရစေ၊ မြို့ကြီးတစ်မြို့မှာ ကုံလုံကြွယ်ဝတဲ့ ကျောင်းဒါယကာကြီးတစ်ယောက် ရှိပါတယ်။

သာသနာရေးနဲ့ ပတ်သက်လို့ နိုင်ငံခြားသားတွေရောက်လာရင် အဲဒီ ဒါယကာကြီးနဲ့ပဲ ဆက်သွယ်ကြရတာ, တစ်နေ့တော့ မျက်နှာဖြူအင်္ဂလိပ်ကြီးနှစ်ယောက်က ဗုဒ္ဓဘာသာ ဘုန်းကြီးတစ်ပါးလောက်နဲ့ စကားပြောချင်ပါတယ်၊ စီစဉ်ပေးပါပေါ့လေ၊ ဒီတော့ ကျောင်းဒါယကာကြီးက သူ ကျောင်းဆောက် ကိုးကွယ်ထားတဲ့ ဆရာတော့်ဆီ ခေါ်သွားတာပေါ့၊ ကျောင်းထဲ ကားကြီးလဲ ဝင်လိုက်ကရော, ဘာပြောကောင်းမလဲ၊ ကျောင်းထိုင်ဘုန်းကြီးဟာ ခြေမကိုင်မိ လက်မကိုင်မိနဲ့ အခြေပျက် အနေပျက် ဣန္ဒြေမဲ့စွာ ပျာယာခတ်သွားတော့တာပဲတဲ့။

## ကိလေ္လမရ၍ အထင်သေးခံရ

ဤအစည်းအဝေးပွဲတွင် အားနာ၍ ဆရာတော်က ဤမျှလောက်သာ ပြောပြပါ၏၊ အကုန် မတင်ပြပါ၊ သို့ရာတွင် ဆရာတော်က အစုံအလင်သိထား၏၊ ကျောင်းဒါယကာကြီးနှင့် အဖော်အဖြစ် လိုက်ပါသွားရသော ဒါယကာတစ်ဦးက လျှောက်ထား၍ ဆရာတော်က အကုန်သိထားနေလေသည်၊ ထိုဒါယကာက လျှောက်ထား၏။

"အရှင်ဘုရား...လိုက်ပို့တဲ့ ကားကြီးကျောင်းဝင်းထဲလဲ ဝင်လိုက်ကရော, ကျောင်းထိုင်ဘုန်းကြီးဟာ ပျာယာခတ်သွားတာပဲဘုရား၊ ကိုယ်တိုင်ပဲ ဖျာခင်းပေးရတော့ မလိုလို, ကုလားထိုင်ကြီးပဲ ထိုးပေးရတော့မလိုလို, ကိလေ္လမဲ့လိုက်တာဘုရား"

ပြီးတော့မှ "ဟဲ့ ဟဲ့ ကိုရင် လာစမ်း, ဟိုနားက ဖျာကြီး ယူခဲ့၊ ဒီမှာ ခင်းစမ်း, အဲလို မဟုတ်ဘူးဟဲ့၊ ဟိုဘက်နည်းနည်း တိုးဦး, အို-ရွဲ့နေပြန်ပါပြီ၊ တယ်လေ-ငါပြောလိုက်ရ, မကောင်းတော့ဘူး, ဟို-ဦးပဥ္စင်းက ဘာကြောင်ကြည့်နေတာလဲ, ထွေးခံ ယူခဲ့ပါလား"

ပြောလိုက်တာလဲ စုံလို့ပဲဘုရား၊ မျက်နှာကြီး နီနီနဲ့ လူရှေ့ သူရှေ့မှာ ငေါက်ငမ်း, ဟိုမာန် သည်မဲနဲ့, ပြီးတော့မှ အင်္ဂလိပ်ကြီးတွေနဲ့ မျက်နှာကြီး ပြုံးဖြဲဖြဲ လုပ်ပြတယ်။

ကျောင်းဒါယကာကြီးက ဘာသာပြန် ပြောရတာပေါ့, အင်္ဂလိပ်ကြီးတွေက ဘာသဘောပေါက်တယ် မသိဘူး, ခေါင်းတညိတ်ညိတ်နဲ့ နေတယ်ဘုရား, အဲဒီနောက် ပြန်လာခဲ့ကြပါတယ်။

လမ်းရောက်တော့ အင်္ဂလိပ်ကြီးတစ်ယောက်က မေးတယ်ဘုရာ့ "ခင်ဗျားတို့ ဗုဒ္ဓဘာသာဟာ သိပ်ပြီး နက်နဲတယ်, သိပ်ပြီး သိမ်မွေ့တယ်, ယဉ်ကျေးတယ်" လို့ စာထဲမှာ ဖတ်ရဖူးပါတယ်။

ဒါပေမယ့် ခုနတုန်းက ဘုန်းကြီးကဖြင့် ဒေါသအလွန်ကြီးပုံရတယ်၊ ကိလေ္လသိက္ခာကလဲ ပျာယာခတ်နေတော့တာပဲ၊ ဒီပြင် ဘုန်းကြီးတွေလဲ သည်လိုပဲလားလို့ မေးတော့တာပဲ ဘုရား"

## ကိုယ့်ပြည်တွင်းမှာ ဦးစွာပြင်၍

ဤသို့ ဒကာက လျှောက်၍ ဆရာတော်က အကုန် သိထားသော်လည်း အားနာသဖြင့် အစည်းအဝေးမှာ မပြောကြားပါ၊ ဆရာတော် အရှင်ဇနကာဘိဝံသက သူဖြစ်စေချင်သော မူဝါဒကိုသာ အစည်းအဝေးတွင် တင်ပြလျှောက်ထားနေပါသည်။

"ဒီတော့ နိုင်ငံခြား သာသနာပြုတယ်ဆိုတာ ကောင်းတဲ့အလုပ်ပါပဲ၊ ဗုဒ္ဓမြတ်စွာ ကိုယ်တော်တိုင်ကလဲ တစ်ကြောင်းတည်းသော ခရီးကို နှစ်ပါး မသွားလိုကြနဲ့, (သာသနာ ကျယ်ကျယ်ပြန့်ပြန့် ဖြစ်အောင်) ဖြန့်ပြီး တစ်ပါးစီ သွားကြ"လို့တောင် ညွှန်ကြားတော်မူချက် ရှိတာပဲ။

အဲဒီ ထုံးနဲ့ အညီပေါ့လေ, နိုင်ငံခြား သွားသာသနာပြု, ဟိုက အထင်ကြီးလို့ လေ့လာရေးသဘောနဲ့ ဒီနိုင်ငံကို လာ, ဒီရောက်တော့ ခုနတုန်းကလို ကိလေ္လမရတဲ့ ဘုန်းကြီးမျိုးနဲ့ တွေ့သွားရင် အထင်သေးစရာ မဖြစ်ပေဘူးလား။

ဒါကြောင့် တပည့်တော်ရဲ့ ခံယူချက်ကို လျှောက်ထားရမယ်ဆိုရင်တော့ ...နိုင်ငံခြားမှာ သာသနာ မပြုသေးခင် ကိုယ့်နိုင်ငံအတွင်းမှာ အလျှင် ပြုပြင်ပြုပြင်ကြရပါဦးမယ်၊ ကိုယ့်သာသနာအတွင်းမှာ အဝတ်အစား အနေအထိုင် အမူအကျင့်မှ စပြီး အချိုးကျ၍ ကျစ်လျစ်နေအောင် ပြုပြင်စေချင်ပါသေးတယ်။

သာသနာပြု အရှင်အဿဇိရဲ့ ကိလေ္လ ပုံပန်းကို အရှင်သာရိပုတ္တရာ ပရိဗိုဇ်က မြင်လိုက်ရုံနဲ့ "သူ့သန္တာန်မှာ တရားထူး ရှိရမယ်"လို့ မျှော်မှန်းနိုင်လောက်တဲ့ ကိလေ္လသိက္ခာမျိုး ဖြစ်ကြဖို့ လေ့ကျင့်ကြရပါဦးမယ်။

ဒါမှလဲ ... (**အတ္တာနမေဝ ပဌမံ, ပဋိရူပေ နိဝေသယေ၊ အထညမနုသာသေယျ**) လို့ ဟောတော်မူတဲ့ ဒေသနာအရ "ဦးစွာ ပထမ ကိုယ့်ကိုယ်ကို ပြည့်စုံအောင် လုပ်, ပြီးမှ သူများကို ဆုံးမ"ဆိုတဲ့ မိန့်ဆိုချက်နဲ့ ကိုက်ညီပါ့မယ်"ဟူ၍ တင်ပြလျှောက်ထားလေသည်။

## ကိုယ့်အိမ် ကိုယ်လုံပါစေဦး

"ဦးစွာ ပထမ ကိုယ့်ကိုယ်ကို ပြည့်စုံအောင် ပြုပြင်"ဆိုတဲ့နေရာမှာ ကိုယ့် မြေပြန့်သာသနာသာမက ကိုယ့်ပြည်တွင်းမှာ ရှိနေတဲ့ တောင်တန်းသာသနာကိုပါ ဆိုလိုပါတယ်၊ အဲဒီ ဒေသတွေမှာ ဖွံ့ဖြိုးဖို့ အများကြီး လိုပါသေးတယ်၊ ကိုယ့်ပြည်ထောင်စုသားတွေ အလင်းရောင် ကောင်းကောင်း ရဖို့ အဆင့်အတန်း မီဖို့တွေ ကြိုးစားကြရပါဦးမယ်။

တောင်တန်းဒေသတွေကို သာသနာပြုတဲ့ နေရာမှာ ဒေသခံပုဂ္ဂိုလ်တွေကို တတ်မြောက်အောင် သင်တန်းပေးတဲ့နည်း၊ သူတို့နဲ့ နီးစပ်တဲ့ မြို့ကြီးများမှာ သင်တန်းဌာန ဖွင့်ပေးတဲ့နည်းက ပိုပြီး တွင်ကျယ်မယ် ထင်ပါတယ်၊ ဥပမာ-ကချင်ပြည်နယ်အတွက်ဆိုလျှင် "မြစ်ကြီးနား"တို့လို မြို့ကြီးကြီးမှာ သင်တန်းပေးတဲ့ဌာန ဖွင့်ထားရပါမယ်။

တခြားတောင်တန်းသားတွေ အတွက်လဲ ထို့အတူပဲ အနီးစပ်ဆုံးဖြစ်တဲ့ မြို့ကြီးကြီးမှာ သင်တန်းဌာန ဖွင့်ပေးရပါမယ်၊ ကိုယ်ကိုယ်တိုင် သူတို့ နယ်မြေကို လှည့်ပတ်ပြီး သာသနာ ပြုတာထက် သူတို့ကိုယ်တိုင် သူတို့ နယ်မြေမှာ ပြုနိုင်အောင် သင်တန်းပေးလိုက်ခြင်းက ပိုပြီး ထမြောက်မယ်လို့ မြင်ပါတယ်၊ အဲဒီနည်းတွေနဲ့ ကိုယ့်တိုင်းပြည်မှာ မြေပြန့်တောင်ပေါ် မကျန် သာသနာမှာကျစ်လျစ်နေအောင် ပြုပြင်ကြရပါမယ်၊ ဘယ်တိုင်းပြည်က လာကြည့်ကြည့် အကြည့်ခံနိုင်အောင်, ဘယ်လိုပဲ လာအကဲခတ်ခတ်, အကဲခတ်နိုင်အောင် ရှေးဦးစွာ ကိုယ့်အိမ် ကိုယ်လုံအောင် ကြိုးစားသင့်ပါသေးတယ်၊ နောက်မှ တစ်ဆင့်တက်ပြီး နိုင်ငံခြားသာသနာပြုလုပ်ငန်းကို စဉ်းစားသင့်ပါတယ်လို့ မြင်ပါတယ်"ဟူ၍ တင်ပြတော်မူသည်။

## လူဒါယကာများ သာသနာပြုလျှင်

"တစ်ဆက်တည်းပဲလျှောက်ရရင်တော့ နိုင်ငံခြားသာသနာပြုတဲ့အခါမှာလဲ တပည့်တော်အမြင်ကတော့ နိုင်ငံခြားကို ဘုန်းကြီးတွေ ကိုယ်တိုင်သွားတာထက် သင်တန်းပေးပြီးဖြစ်တဲ့ လူပုဂ္ဂိုလ်တွေ သွားပြုရင် ပိုပြီး ကောင်းမယ်လို့ ထင်ပါတယ်။

ဘာကြောင့်လဲဆိုတော့ လူပုဂ္ဂိုလ်တွေက ကိုယ်ကျင့် ဝိနည်း သိပ်များဖို့ မလိုဘဲ ငါးပါးသီလ ပြည့်စုံရုံနဲ့ လုံလောက်လို့ပါပဲ၊ ဘုန်းကြီးရဟန်းများကျတော့ သိက္ခာပုဒ်တွေကများတဲ့အတွက် နိုင်ငံခြားမှာ ရှောင်လို့ တိမ်းလို့ မလွယ်အောင် ဖြစ်နေပါမယ်၊ သီလတွေပျက်မယ်, ပျက်တဲ့သီလတွေနဲ့, အကျိုးကျိုး အပြတ်ပြတ်တွေနဲ့ သာသနာပြုတာကို မလိုလားလို့ပါဘဲ။

လူဒါယကာတွေပြုလို့ အသားကျပြီး တချို့ သာသနာဘောင်ကို တက်ချင်တယ်ဆိုမှ ဒီနိုင်ငံကို ခေါ်လာ၊ သာသနာ့ဘောင်တက်, လုပ်ရင် ဖြစ်နိုင်လိမ့်မယ်လို့ မြင်ပါတယ်၊ အဲဒီနောက်မှာတော့ သူတို့နိုင်ငံသားက သူတို့နိုင်ငံ ပြန်သွားပြီး ဆက်လက်ပြီး သာသနာပြုကြပါလိမ့်မယ်"...ဤသို့လည်း နိုင်ငံခြားသာသနာပြုရေးနှင့် ပတ်သက်၍ ဆရာတော်က သူ၏ အမြင်ကို တင်ပြပါသည်။

# အခြေခံသာသနာပြုရေးနှင့် အရှင်ဇနကာဘိဝံသ

## အခြေခံနိုင်မာဖို့ အရေးကြီး

ဤသို့သော မူဝါဒ ရှိ၍ပင်ဖြစ်ပေမည်, ဆရာတော် အရှင်ဇနကာဘိဝံသမှာ သက်တော် ၆၀ ကျော် ၇၀ နီးပါးအထိ မဟာဂန္ဓာရုံကျောင်းတိုက်ခွဲ မရှိခဲ့ပါ၊ ကျောင်းတိုက်အတွင်း၌ စာပေကျမ်းဂန် ပြည့်စုံပြီး တပည့်ကြီးများ အများအပြား ရှိနေခဲ့ကြသော်လည်း ကျောင်းတိုက်ခွဲ တည်ထောင်ရန် မိန့်မြွက်ခြင်း မရှိခဲ့ပါ၊ မိမိ၏ ပရိသတ်ကို ကျစ်လျစ်ခိုင်မာအောင်သာ ပြုစု ပျိုးထောင်ပေးနေပါသည်၊ အခြေခံ ခိုင်မာဖို့သည် အဓိက အရေးကြီးသည်မဟုတ်ပါလော၊ တစ်နည်းအားဖြင့်လည်း ကျောင်းတိုက်ခွဲလိုမှု ဆန္ဒ စောလွန်းလျှင် မအပ်မရာတွေနဲ့ ရောကုန်မည်ကိုလည်း စိုးရိမ်တော်မူဟန် ရှိလှ၏။

## မဟာမြိုင်ကျောင်းတိုက်

ဤသို့ဖြင့် နေထိုင်လာခဲ့ကြရာ ၁၃၃၄ ခု သီတင်းကျွတ်လထဲတွင် မန္တလေးမြို့ အရှေ့ပြင် ဝိဇ္ဇာသိပ္ပံ တက္ကသိုလ်အနီး မဟာဗောဓိရိပ်သာကြီးမှ သီလရှင်ဒေါ်စိတြာတို့က ဆရာတော့်ထံလာ၍ ကျောင်းတိုက်တည်ရန် မြေကွက်တစ်ခု အပ်နှံလှူဒါန်းကြတော့သည်၊ မြေကွက်မှာလည်း မဟာဗောဓိရိပ်သာ၏ အရှေ့ဘက် အနီးမှာပင် တည်ရှိ၍၊ သို့ဖြစ်၍ ဆရာတော်က စိစစ်ပြီးလျှင် "သင့်တော်မည်"ဟု ထင်သောကြောင့် လက်ခံတော်မူလိုက်သည်။

ထိုမြေကွက်မှာ ရှေးယခင်က ရသေ့ကြီးတစ်ဦး နေထိုင်ခဲ့၏၊ ထိုရသေ့ကြီးမှာ တစ်ခါတလေ အထက်အညာဒေသ မဟာမြိုင်တောရပ်သို့ ကြွ၍ နေတတ်သဖြင့် "မဟာမြိုင်ရသေ့ကြီး"ဟု ခေါ်ကြသည်။

ယခုအခါ ထိုရသေ့ကြီးက အပြီးအပိုင် အညာဒေသသို့ ပြန်တော့မည်ဖြစ်၍ ဆိုင်ရာတို့အား မြေကွက်ကို ပြန်လည်အပ်နှံ၏၊ ထိုမှတစ်ဆင့် ဆရာတော် အရှင်ဇနကာဘိဝံသအား လာ၍ လှူကြခြင်းဖြစ်လေသည်။

ထို့ကြောင့် ဆရာတော်က "မဟာမြိုင်"ဟူသော နာမည်သည် မူလကပင် ကောင်းပြီးသားပဲဟု မိန့်ကာ ယင်းကျောင်းမြေကိုလည်း "မဟာမြိုင်ကျောင်းတိုက်"ဟူ၍ပင် မှည့်လိုက်တော့သည်၊ ယခုအခါတွင်ကား ပတ်ဝန်းကျင် ရပ်ကွက်တို့ပါ "မဟာမြိုင်ရပ်ကွက်"ဟူ၍ တွင်လာကြတော့၏။

ထို့နောက် ဆရာတော်က အမရပူရ မဟာဂန္ဓာရုံမှ စာချဘုန်းကြီး အရှင်သဒ္ဓနသာရအား သာသနာပြု လုပ်ငန်းဆောင်ရွက်ရန် အပ်နှံချီးမြှောက်တော်မူတော့သည်၊ အရှင်သဒ္ဓနသာရကလည်း မိမိ၏ အစ်ကိုကြီးပမာ အစဉ်လေးစား၍ လာခဲ့သော "မဟာဂန္ဓာရုံဆရာတော်ကြီး၏တပည့်ရင်း သရက်ချိုမှ အရှင်သုဝဏ္ဏကို အကူအညီယူကာ သာသနာပြု လုပ်ငန်း စခဲ့ကြတော့၏။

ဆရာတော်ကြီး အရှင်ဇနကာဘိဝံသ ချမှတ်ပေးခဲ့သော မူဝါဒအတိုင်း ကျစ်ကျစ်လျစ်လျစ်ဖြစ်အောင် သာသနာပြုလုပ်ငန်းများကို ရွက်ဆောင်လျက် နေကြသည်။

## နံနက်ခင်းဩဝါဒများမှ ကောက်နုတ်ချက်များ

### သူကျိုးဆောင်မှ ကိုယ်ကျိုးအောင်

"ဦးပဉ္စင်းတို့ ကိုရင်တို့...ကျန်းမာရေး ကောင်းအောင် ဂရုစိုက်ကြ၊ သာသနာတော်ကို စောင့်ရှောက်ကြရမှာ၊ ကိုယ်ကျင့်သီလလဲ လုံပစေ၊ စိတ်ထားလဲ ဖြူပစေ၊ သူများအကျိုး ဆောင်ချင်တဲ့စိတ်ဓာတ်လဲ ကိန်းပစေ၊ သာသနာပြုမယ့်ပုဂ္ဂိုလ်ဆိုတာ အနစ်နာခံရတယ်၊ သူများအကျိုး ဆောင်ရတယ်၊ "သူများအကျိုးဆောင်မှ ကိုယ်ကျိုးအောင်"ဆိုတဲ့ စကားပုံလဲ ရှိသားပဲ။

အခုဘုန်းကြီးလုပ်နေတဲ့ လုပ်ငန်းတွေကို စစ်ကြည့်ရင် အများအကျိုးအတွက်ပဲ၊ စာချနေတယ်၊ ကျမ်းစာတွေ ရေးနေတယ်၊ နေ့စဉ် ဩဝါဒတွေ ပေးနေတယ်၊ ဒါတွေဟာ ဦးပဉ္စင်းတို့ ကိုရင်တို့ဖို့၊ ဒါယကာ ဒါယိကာမတွေဖို့၊ နောင်လာနောက်သားတွေဖို့၊ ဒီလို အများအကျိုးဆောင်တော့ ကိုယ်ကျိုးတွေလဲ အောင်လာတာပဲ၊ ဟိုဘက်ကမ်းကို လှေနဲ့ လိုက်ပို့တဲ့သူလိုပဲ၊ ပို့တုန်းကတော့ သူများကို ပို့တာပဲ၊ ကိုယ်ပါ ရောက်သွားတယ်၊ အခု နောက်ပိုင်းမှာ ဒီသဘောလေးတွေ တွေ့တွေ့နေရတယ်။

တစ်နေ့က ဘုန်းကြီးကျန်းမာရေးအတွက် ဆေးရုံကြီးကို သွားပြီး ဓာတ်မှန်ရိုက်တယ်၊ ဆရာ ဆရာမတွေ ဝိုင်းပြီး ဂရုစိုက်လိုက်ကြတာ၊ ကိုယ်က အများအကျိုးတွေ ဆောင်ထားတော့ ဒါ အတုံ့အပြန်ဖြစ်လာတာ၊ ဒါမျိုးကို ရည်ရွယ်လို့ပဲ အဆိုတစ်ခုရှိတယ်။

> "**သတ္ထ ပုနပိ သဇ္ဇန္တိ,**
> **ဗာဟုမုဏ္ဍိမ္ပဲ ဝုစ္စတေ၊**
> **သကတ္တော နတ္ထိ နတ္ထေဝ,**
> **ပရသာဘာမကုဗ္ဗတော**" တဲ့။

"သူများအကျိုး မပြုတဲ့သူဟာ ကိုယ်ကျိုးလုံးဝမရှိဘူးတဲ့၊ ဒီစကားဟာ မှန်လိုက်သမှ သိပ်ကို မှန်တာပဲလို့ လက်သီးလက်မောင်းတန်းပြီး ရဲရဲကြီးသာ

ကြွေးကြော်ပါ"တဲ့။

ဤသို့လျှင် ကိုယ့်ဖို့သာ ကိုယ်သိတတ်မှု၊ ကိုယ့်ဘက် ကိုယ်သာ ယက်တတ်တဲ့ အတ္တလွန်ကဲမှုမျိုး မဖြစ်မိကြစေရန်၊ သူတစ်ပါးအကျိုး ဆောင်ရွက်လိုစိတ် ရှိရန် ဆရာတော်က သတိပေး ဆုံးမခြင်း ဖြစ်သည်။

## ပြည့်တဲ့ အနံ့ဟာ ငိုက်လာတာပဲ

တစ်ခါတစ်ရံတွင်လည်း "ဦးပဉ္စင်းတို့ ကိုရင်တို့ တစ်ပါးနဲ့တစ်ပါး ဂါရဝ-နိဝါတဆိုတာ ရှိရတယ်၊ ငယ်တဲ့ သူက ကိုယ့်ထက် ကြီးတဲ့သူတွေအပေါ် လေးစားရတယ်၊ ဖိနပ်ကြီးတွေ တရှပ်ရှပ်နဲ့ အနား ကပ်ပြီး စီးမသွားရဘူး၊ ကြီးတဲ့သူ လာရင် ဘေးနား ကပ်နေရတယ်၊ ရိုသေမှု ရှိရတယ်၊ တစ်ခါကြီးတဲ့ သူကလဲ ငယ်တဲ့သူတွေအပေါ် ကြင်နာတတ်ရတယ်၊ ငဲ့ညှာတတ်ရတယ်၊ ဒါဟာ ဘုရားရှင်ကိုယ်တော်မြတ်ရဲ့ ချမှတ်ထားတဲ့ ယဉ် ကျေးမှုပဲ၊ ဒီလို ရိုသေလေးစားရတာ အောက်ကျ တယ်လို့ မထင်နဲ့၊ မြင့်မြတ်လာတာ၊ အပြန်အလှန် လေးစားရတယ်။

တစ်ခါတုန်းက အရှင်သာရိပုတ္တရာကိုယ်တော်မြတ်ကြီး၊ ဘုရားအမှူးရှိတဲ့ သံဃာတော်တွေ စီတန်းပြီး ဆွမ်းခံကြွခါနီး ထေရ်စဉ်ဝါလိုက် အနေသင့်အောင် ရှေ့နောက် စီပေးနေတယ်၊ အလုပ်လုပ်ရင်းဆိုတော့ ရန်းထားတဲ့ ကေသီက တွဲလျားကြီးကျနေ ထင်ပါရဲ့၊ ဒီတွင် ၇ နှစ်အရွယ် ကိုရင်ကလေးက ပြောတယ်..."ဘယ့်နှယ်လဲ အရှင်ဘုရားကြီး... လက်ယာတော်ရဲ့ ပညာတေဒဂ်ရကြီး လုပ်နေပြီး သင်္ကန်းကြီးကလဲ ဖရိုဖရဲနဲ့ပါလား"လို့ ပြောသတဲ့။

## အရှင်သာရိပုတ္တရာ၏ ခံယူချက်

ဒီတော့ အရှင်သာရိပုတ္တရာက ဘာမျှ ပြန်မပြောဘဲ ဘေးနားကို ခဏသွားပြီး သင်္ကန်းကို ကျကျနန ပြင်ရန်းသတဲ့၊ ပြီးမှ ပြန်လာ၊ ကိုရင်ကလေးအနား သွားပြီး "ဘယ့်နှယ်လဲဆရာ၊ တော်လောက်ပြီလား" လို့ လေးလေးစားစား ပြုံးပြုံးမေးသတဲ့၊ ပြီးတော့ သူ့ ခံယူချက်ကိုလည်း မိန့်သေးတယ်။

> **"တဒဟု ပဗ္ဗဇိတော သန္တော၊**
> **ဇာတိယာ သတ္တဝဿိကော၊**
> **သောပိ မံ အနုသာသေယျ၊**
> **သမ္ပဋိစ္ဆာမိ မတ္ထကေ"** တဲ့။

"အသက်အရွယ်အားဖြင့် ၇ နှစ်မျှသာ ရှိသေးတဲ့၊ ဒီကနေ့မှ ဖြစ်လာတဲ့ သာမဏေကလေးပင် ဖြစ်ပါစေတဲ့၊ အကြောင်းအကျိုးနှင့်တကွ ကျွန်ုပ်ကို ဆုံးမစကား ပြောကြားလာပါလျှင် ဦးထိပ်ပြင်နဲ့ လေးလေးစားစား ခံယူပါမည်"တဲ့။

ကဲ-ဘယ်လောက် ဂါရဝ၊ နိဝါတ ရှိသလဲ၊ အရှင်သာရိပုတ္တရာကြီးကတောင် ဒီစကားမျိုးပြောပြီး ဒီစိတ်ထားမျိုး ထားတာ၊ "အဆံပြည့်လာတော့ အနံ့ငိုက်လာတဲ့ သဘောပေါ့" ဤသို့လည်း ဩဝါဒပေးတတ်သည်။

## ပရိသတ်ထဲ ပွဲဝင်ဆက်ဆံနည်း

တစ်ခါတလေတွင်မူ လူကြီးလူကောင်းပုဂ္ဂိုလ်တို့နှင့်ဆက်ဆံသည့်အခါ ဣန္ဒြေသိက္ခာရှိရပုံ၊ ကာယကံ ဝစီကံတို့ ယဉ်ကျေးအောင် ကျင့်သုံးရပုံအကြောင်း တို့ကို မိန့်မြွက်တတ်သည်။

"အခု ဘုန်းကြီးတို့ ကျောင်းတိုက်ကို နိုင်ငံခြားသားတွေ တော်တော် ဝင်လာနေကြပြီ၊ ဘုန်းကြီးတို့က သပ်သပ်ရပ်ရပ်ဖြစ်အောင်၊ အနေအထိုင် ကျစ်ကျစ် လျစ်လျစ် ရှိအောင် ပြုပြင်ထားကြတော့ လာလာပြီး ကြည့်နေကြပြီ၊ အကဲခတ်နေကြပြီ"

အဲလိုပဲ ကိုယ်က သွားပြဖို့ မလိုဘူး၊ သူတို့က လာကြည့်နေကြပြီ၊ ဒါဟာ ကိုယ်ကျင့်သိက္ခာပဲ၊ ဘုရားအဆုံးအမတွေပဲ၊ မကျင့်သုံးကြလို့သာပါ၊ စာထဲမှာ အပြည့်အစုံ ရှိသားပဲ၊ ဘယ်သူပဲ ကျင့်ကျင့် ဖြစ်နိုင်တာပဲ၊ ဘုန်းကြီးတို့မှ မဟုတ်ပါဘူး၊ ကြည့်စရာ ဖြစ်လောက်အောင် ကျင့်ရင် လာကြည့်ကြမှာပဲ၊ တချို့ နိုင်ငံခြားသားတွေက ဘုန်းကြီးထံသို့ ရောက်အောင်လာပြီး မေးတယ်၊ မြန်းတယ်၊ စုံစမ်းကြတယ်၊ ဒီအခါမှာ သာပြီး သတိရှိဖို့ လိုတယ်၊ ကာယကံ ဝစီကံ ဣန္ဒြေသိက္ခာ တည်ငြိမ်ဖို့ လိုတယ်၊ ပရိသတ်ထဲ ပွဲဝင် ဆက်ဆံနည်းပဲ။

## ဘုရားဆုံးမထားတာတွေ အစုံရှိ

"ဘုန်းကြီးကတော့ ပရိဝါပါဠိတော်မှာလာတဲ့ "သင်္ဂါမာဝစရ"အခန်းမှာ ပါတဲ့အတိုင်း ကျင့်သုံးနေတာ၊ "ရင်ဆိုင်၍ ယှဉ်ပြိုင်ရတဲ့ ပရိသတ်သို့ ချဉ်းကပ်သက်ဝင်နည်း"လို့ ဆိုလိုတာပေါ့၊ "ပရိသာဝစရ" ပရိသတ်ထဲ ပွဲဝင်ချဉ်းကပ်နည်းလို့လဲ ဆိုနိုင်ပါရဲ့"

"အင်္ဂလန်က ပရိဖက်ဆာကြီးတို့, သီရိလင်္ကာ (သီဟိုဠ်) ယဉ်ကျေးမှုဌာနက မင်းကြီးတို့ လာတုန်းကလဲ ဘုန်းကြီးက အဲဒီနည်းတွေအတိုင်း ကျင့်သုံးခဲ့တာ၊ ကိုယ့်ပြည်တွင်းက လူကြီးလူကောင်း ဂုဏ်သရေရှိတွေနဲ့ ဆက်ဆံတော့လဲ ဒါပဲ၊ အဲဒီမှာ ဘုရားက အစုံဟောပြထားတာပဲ"

ဟုတ်ပါသည်၊ ရှင်တော်ဗုဒ္ဓက သံဃာ့ပရိသတ်သို့ ချဉ်းကပ်သောအခါ မည်သို့ နေထိုင်ကျင့်သုံးရမည်ဆိုသည်ကို ထိုနေရာ၌ အတော်များများ ဟောပြထားပါ၏။

ဥပမာ- တစ်ဖက်သားကို မလေးစားတဲ့ သဘောလဲ မဟုတ်, သိပ်အောက်ကျတဲ့ အမူအရာမျိုးလဲ မပါစေဘဲ ပွဲဝင်ချဉ်းကပ်ပါတဲ့၊ နေရာယူပုံလဲ သတိရှိပါ၊ သင့်တော်ရာကို ရွေးရပါမယ်တဲ့၊ ဘောင်မဝင်တဲ့ စကားတွေ ဗလစ်-ဗလစ် မများစေနဲ့၊ ကလန့်ပြောတဲ့ စကားမျိုး ရှောင်ပါတဲ့၊ သိမ်မွေ့ ပြေပြစ်ပါ၊ ရိုင်းစိုင်းကြမ်းတမ်းမှုတွေ မပါစေနဲ့၊ မေတ္တာရှေ့ထားပါတဲ့၊ ကောက်ကျစ်စဉ်းလဲမှု မပြုရ၊ ကြွေ့ မရ, မျက်စိပေကလပ် ပေကလပ် မလုပ်နဲ့၊ မျက်ခုံး မချီရ (မျက်စပစ်၍ စကား မပြောရ) ခေါင်းရမ်းရမ်း ကိုယ်ရမ်းရမ်း မရှိစေနဲ့၊ လက်ခြေ အငြိမ်မရ ကိုးရိုးကားရားနဲ့ အမူအရာ မပြုလုပ်မိပါစေနှင့်၊ လက်သီးဆုပ်၍ လက်သီးလက်ရုံးတန်းပြီး ကြမ်းတမ်းစွာ မဟောရမ်းပါနဲ့၊ အဆောတလျင် ပျာယီးပျာယာ စကားမပြောရ၊ ပေါ့တန်သော စကားလုံးမျိုးကို မပြောမိအောင် ရှောင်ပါ" စသည်ဖြင့် ဟောပြထားသည်ကို တွေ့နိုင်ပါသည်။

## မိမိဘဝမြင့်အောင် သီလဖြင့် ထူထောင်ယူပါ

### သီလဖြူစင်ရင် လိုချင်တာရ

ဆရာတော်က အများအားဖြင့် မိန့်တတ်သည်မှာ သီလလုံခြုံဖို့ပင် ဖြစ်၏၊ "ဖိုးသူတော်ကလေးတွေက ရှစ်ပါးသီလ, ကိုရင်တို့က ဆယ်ပါးသီလ, လိင်ဆယ်ပါး, ဒဏ်ဆယ်ပါး မကျိုးပေါက်အောင်, ပြီးတော့ စုဒ္ဒသခန္ဓကဝတ်တွေအထိ ပြည့်စုံဖို့၊ ဦးပဉ္စင်းတို့ကျတော့ ပါတိမောက္ခသံဝရသီလ, ဣန္ဒြိယသံဝရသီလ, အာဇီဝပါရိသုဒ္ဓိသီလ, ပစ္စယသန္နိဿိတသီလမှ စပြီး ကုဋေ ကိုးထောင်ကျော် သိက္ခာပုဒ်တွေပါ လုံခြုံအောင် လေ့ကျင့် ကြိုးစားကြရမှာ၊ လူပုဂ္ဂိုလ် ဒါယကာ ဒါယိကာမများကတော့ ငါးပါးသီလဆိုရင် လုံလောက်ပါပြီ။

သီလလုံခြုံပြီဆိုရင် လူ့စည်းစိမ်, နတ်စည်းစိမ် လောက်တော့ စကားထဲတောင် ထည့်မပြောနဲ့၊ လိုချင်ရာရ *(**ပရိသုဒ္ဓသီလာ နာမ ဆသု ဒေဝလောကေသု ယတ္ထ ယတ္ထ ဣစ္ဆန္တိ, တတ္ထ တတ္ထ နိဗ္ဗတ္တန္တိ**) တဲ့။

အမိပ္ပာယ်က "သီလသာ ဖြူစင်ပစေတဲ့၊ နတ် ၆ ဘုံ, ဘယ်ဘုံ ကြိုက်သလဲ၊ ကြိုက်တဲ့ ဘုံကို ရောက်နိုင်တယ်"တဲ့ ကဲ-ဘယ်လောက် အားရစရာ ကောင်းသလဲလို့၊ ဒါတွင် ဘယ်ကမလဲ၊ သီလဖြူစင်ပြီဆိုရင် ဘာမဆို အလိုရှိရာ ပြည့်စုံနိုင်တယ်ဆိုတဲ့အကြောင်းကို (**ဣစ္ဆတိ ဘိက္ခဝေ, သီလဝတော စေတောပဏိဓိ ဝိသုဒ္ဓတ္တာ**) လို့ ဟောမိန့်ထားတာ ရှိသားကပဲ၊ မဂ်ဖိုလ် နိဗ္ဗာန်ကိုလဲ လွယ်လွယ်ကလေး ရနိုင်တာပဲတဲ့။

---

* **ဝိသုဒ္ဓိမဂ် ။ ၄၅။**

## နိဗ္ဗာန်ကို လိုချင်ရင်လဲ လွယ်လွယ်နဲ့

သီဟိုဠ်မှာ မထေရ်ကြီးတစ်ပါး ရှိခဲ့ဖူးတယ်၊ အသက်က ၈၀, သီလသိက္ခာ စောင့်စည်းမှုမှာ သိပ်နာမည်ကြီးတယ်၊ ပျံတော်မူခါနီးတော့ ခုတင်ပေါ်မှာ ပက်လက်ဖြစ်နေပြီ၊ သံဃာတွေက မေးကြတယ်၊ "အရှင်ဘုရား, အားကိုးစရာ လောကုတ္တရာတရားများ ရှိပါပြီလား" "မရှိသေးဘူး ငါ့ရှင်တို့"လို့ ဖြေသတဲ့။

ဒီတော့ အလုပ်အကျွေးကိုယ်တော်က လျှောက်တယ်၊ "အရှင်ဘုရား, အရှင်ဘုရားရဲ့ သီလ သမာဓိ သိက္ခာ အင်မတန်ကြီးတာကို ပတ်ချာဝန်းကျင် ၁၂ ယူဇနာအထိ ပျံ့နှံ့ပြီး သိနေကြတယ်ဘုရား၊ အရှင်ဘုရား ပျံတော်မူရင် "ပရိနိဗ္ဗာန်စံတယ်"လို့ ကြွေးကြော်ကြမှာပဲတဲ့၊ "မဟုတ်ဘူး"ဆိုရင်လဲ နှလုံးမသာမယာ ဖြစ်ကြမှာပဲဘုရား"လို့ လျှောက်တော့...

"ဪ-သည်လိုလား, ငါက လာမည့် အရိမေတ္တေယျဘုရားကို ဖူးချင်လို့ ဝိပဿနာ မတက်ဘဲ တဲထားတာ၊ ကဲ ကဲ-သည်လိုဆိုရင်ဖြင့် ငါ့ကို ထူပေးစမ်း, ထူပေးစမ်း"လို့ မထေရ်ကြီးက ပြောသတဲ့၊ ဒါနဲ့ ထူပေးပြီး အခန်းအပြင်ဘက် ထွက်ခါရှိသေး, လက်ဖျောက်တီးပြီး ပြန်ခေါ်တော့တာပဲတဲ့၊ ရဟန္တာ ဖြစ်သွားပြီကိုး။

အဲသလို သီလဖြူစင်နေပြီဆိုရင် နိဗ္ဗာန်ကိုလဲ အချိန်မရွေး လွယ်လွယ်ကလေး ရနိုင်တာပဲ"။

ဤသို့လျှင် ဆရာတော်က အားရစရာကြီးတွေ မိန့်မြွက်နေတတ်ပါသည်။

## နတ်ပြည်တက်တဲ့ လှေကားကြီးလို

အခုခေတ် တရားတွေကတော့ ထိုင်ကြပါရဲ့၊ ဒါပေမယ့် သီလကိုတော့ စကားထဲတောင် ထည့်မပြောချင်ကြဘူး၊... ကမ္မဋ္ဌာန်းကျောင်းထဲ ဝင်၊ ဝိပဿနာ တန်းရှု, ဒါကို ဘုန်းကြီးက သိပ်မကြိုက်ချင်ဘူး၊ သူတို့က ဆင်ခြေပေးကြသေးတယ်၊ "ဝိပဿနာရှုနေတဲ့ ပုဂ္ဂိုလ်ဟာ သီလကိုလဲ စောင့်ထိန်းပြီး ဖြစ်နေပြီ မဟုတ်လား, သီလပါ ပြည့်စုံနေပြီပေါ့"တဲ့။

မဟုတ်သေးဘူး, ဝိပဿနာဖြစ်တယ်ဆိုတာ ဉာဏ်ပါမှ ဖြစ်တာ, ဉာဏ်ပါဖို့က သမာဓိရှိမှ, သမာဓိ ရှိဖို့က ကိုယ်စိတ်ချမ်းသာမှ, ကိုယ်စိတ်ချမ်းသာဖို့ကလဲ ပီတိ ပါမောဇ္ဇ ဖြစ်မှ, ပီတိ ပါမောဇ္ဇ ဖြစ်ဖို့ကလဲ ရင်တွင်း ပူလောင် နောင်တ မဖြစ်ဖို့, နောင်တ မဖြစ်ဖို့ဆိုတာကလဲ သီလလုံခြုံခဲ့မှ။

အဲဒီလို သီလဟာ အခြေခံကျပါတယ်၊ အောက်ဆုံး လှေကားထစ်ပဲ၊ သူတို့တွေက အောက်ဆုံး လှေကားထစ်ပေါ် မနင်းဘဲနဲ့ အထက်ဆုံး လှေကားထစ်ကို လှမ်းကျော်တက်ချင်တာကိုး"။

## နိဗ္ဗာန်ဝင်တဲ့ တံခါးကြီးပမာ

ဒီနည်းအားဖြင့် သီလကို အခြေခံကျလို့ တချို့နေရာမှာ ရပ်တည်ရာ မြေကြီးနဲ့ ဥပမာပေးကြတယ်၊ တချို့နေရာကျတော့ ကာယကံ ဝစီကံ မနောကံ အညစ်အကြေးတွေကို ဆေးကြောပေးတတ်လို့ ရေနဲ့ တူတယ်လို့ ဆိုတယ်၊ တချို့နေရာမှာ "သီလရနံ့" ဆိုပြီး နံ့သာနဲ့တူကြောင်း ပြပြန်တယ်။

တချို့နေရာကျတော့ ဆင်မြန်းစရာ တန်ဆာလို ပုံနှိုင်းပြန်ရော၊ တစ်နေရာမှာတော့ နတ်ပြည်တက်တဲ့ လှေကားစောင်းတန်းကြီးလိုပဲလို့ ဆိုပြီးတဲ့အပြင် နိဗ္ဗာန်ဝင်ဖို့ တံခါးဝကြီးနဲ့လဲ တူတယ်လို့ ချီးမွမ်းထားပြန်သေးတယ်။

* **သဂ္ဂါရောဟဏသောပါနံ,**
**အညံ သီလသမံ ကုတော၊**
**ဒွါရံ ဝါ ပန နိဗ္ဗာန-**
**နဂရဿ ပဝေသနေ။**...တဲ့။

ဒါကြောင့် သီလဟာ အရေးကြီးလို့ အင်မတန်

---

* ဝိသုဒ္ဓိမဂ် ၊ ၄၅။

* ဝိသုဒ္ဓိမဂ် ၊ ၁၀။

ဖြည့်ကျင့်စရာ ကောင်းပါတယ်၊ သီလရှိပြီလားဆိုရင် သုဂတိဘဝကတော့ သေချာတယ်၊ ကျိန်းသေပဲ၊ သုဂတိဘဝကို ရမှလဲ သက်ဆိုင်တဲ့ အကျိုးတွေကို ခံစားနိုင်ဖို့ အခွင့်ရနိုင်မယ် မဟုတ်လား။

လူ့ဘဝဆိုရင် လူ့စည်းစိမ်တွေနဲ့ အပြည့်အစုံ အလုံအလောက်, နတ်ဘဝဆိုရင်လဲ နတ်စည်းစိမ်တွေနဲ့ အလုံအလောက် လူသူဌေး, နတ်သူဌေးတွေ ဖြစ်နိုင်ရမှာပဲ၊ ဖြစ်နိုင်ဖို့ အကြောင်းရင်း အစစ်ပဲ၊ သူဌေးဝါဒဖြစ်ဖို့ အခြေခံလို့ ဆိုနိုင်တာပေါ့။

ဒါကြောင့် "နန်းတော်ရှေ့ကို မေးလာကြရင် သူဌေးဝါဒကို ပြောကာပြမယ်"ဆိုသလိုပဲ "ဦးဇနကကို မေးလာကြရင် သူဌေးဝါဒကို ပြောကာ ပြမယ်" လို့ ဘုန်းကြီးက ဆိုချင်တယ် ဟူ၍ပင် ခပ်ရွှန်းရွှန်း မိန့်ဖူး၏။

## နီးပေမယ့် ဝေး, ဝေးပေမယ့် နီး

### သင်္ကန်းစကို ဆွဲလိုက်နေပေမယ့်

ဘုန်းကြီးတို့ တစ်တွေဟာ ဘုရားသာသနာထဲ အတွင်းကျကျ ဝင်ထမ်းနေတဲ့သူဆိုတော့ အများနဲ့စာရင် ဘုရားနဲ့ အနီးဆုံးလို့ ဆိုရမှာပဲ၊ ဒါယကာ ဒါယိကာမတို့သည်ပင် ဘုန်းကြီးတို့လောက် မနီးသေးဘူး၊ သူတို့ရဲ့ကြားက ဘုန်းကြီးတို့ တစ်ဆင့် ခြားနေသေးတယ်၊ ဘုန်းကြီးတို့က ဘုရားနဲ့ ကပ်နေတယ် ဆိုပါတော့၊ ဒါပေမယ့် ကပ်နေတိုင်း နီးတယ်လို့ မဆိုနိုင်ဘူး, ဒါကို ဦးပဉ္စင်းတို့ ကိုရင်တို့ သတိရှိကြပါ၊ စဉ်းစားကြပါ၊ အလေးထားကြပါ၊ ကပ်နေတိုင်း နီးတယ်လို့ မဆိုနိုင်ဘူး။

တစ်နေရာမှာ ဗုဒ္ဓမြတ်စွာက ဟောထားတယ်၊ * သံဃာဋိကဏ္ဏဆိုတဲ့သုတ်, သင်္ကန်းကြီးအစွန်း လို့ အဓိပ္ပာယ်ရတာပေါ့၊ အပြည့်အစုံကတော့ "သင်္ကန်းစွန်း သင်္ကန်းစကို ဆွဲလိုက်နေသူ"လို့ ဆိုလိုတယ်။

အဲဒီသုတ်မှာ ဟောထားတာ "ရဟန်းတစ်ပါးဟာ ဘုရားရဲ့ သင်္ကန်းအစွန်းကို မလွှတ်ဘဲ ဆွဲထားပြီး သွားလေရာ နောက်က တကောက်ကောက် လိုက်နေတယ်၊ ဘယ်လောက် နီးကပ်သလဲဆိုရင် "ပါဒေ ပါဒံ နိက္ခိပန္တော" ရှေ့က သွားနေတဲ့ ဘုရားရဲ့ဖနောင့်ကို နောက်ကနေ တက်တက်နင်း လိုက်နေတဲ့အထိ ကပ်နေတာ။

ဒါပေမယ့် အဲဒီ ရဟန်းဟာ အဘိဇ္ဈာများမယ်, ဗျာပါဒများမယ်, ကာမဂုဏ်တရားတို့၌ ဖောက်ပြားလော်လီမယ်၊ စိတ်နေစိတ်ထား ပျက်ပြား, အတွေးအခေါ်မှား, သတိတရားတွေလွှတ်, တည်ငြိမ်မှု မရှိ, ယောက်ယက်ခတ်သော စိတ်ထားဖြင့် ဖောက်ပြားဟောရမ်းနေမယ်ဆိုရင်တဲ့ "သော အာရကာဝ မယှံ" အဲဒီ ရဟန်းဟာ ငါဘုရားနဲ့ အဝေးကြီး, "အဟဉ္စ တဿ" ငါဘုရားကလဲ အဲဒီရဟန်းနဲ့ အဝေးကြီး"တဲ့၊ ဒါ ဘာ့ကြောင့်လဲဆိုရင် သူက တရားနဲ့ ဝေးတာကိုး၊ ဒါကြောင့် ငါဘုရားနဲ့လဲ ဝေးတယ်တဲ့။

### ခရီးဝေးလည်း အနီးကလေး

တစ်ဖန် အဲဒါရဲ့ ပြောင်းပြန်ပဲ, ရဟန်းတစ်ပါးဟာ ငါဘုရားနဲ့ ယူဇနာ ၁၀၀ ဝေးကွာချင် ဝေးကွာပစေတဲ့၊ ခုနတုန်းက စိတ်ထား စိတ်ယုတ်များရဲ့ ပြောင်းပြန် ကောင်းတဲ့ စိတ်ထား ကိုယ်ကျင့်သီလများပြည့်စုံ, အကျင့်သိက္ခာတွေ လုံပြီဆိုရင်တဲ့ "သော သန္တိကေဝ မယှံ" အဲဒီ ပုဂ္ဂိုလ်ဟာ ငါဘုရားအထံမှာ ငါဘုရားနဲ့ ကပ်နေတာပဲ, "အဟဉ္စ တဿ" ငါဘုရားကလဲ အဲဒီ သူတော်ကောင်းနဲ့ ကပ်နေတာပဲတဲ့။

ဒါ ဘာ့ကြောင့်လဲဆိုတော့ သူက တရားနဲ့ နီးတာကိုး၊ ဒါ့ကြောင့် ငါဘုရားနဲ့လဲ နီးတယ်တဲ့၊ ဒါကို သတိရှိကြပါ၊ အမြင်အားဖြင့် ပြောတော့ ဘုန်းကြီးတို့က ဒါယကာ ဒါယိကာမတွေထက် ပိုပြီး နီးသလိုလိုပဲ၊ အနီးပေမယ့် စိတ်ထား ကောင်း-မကောင်း၊ သူတော်ကောင်း ဟုတ်-မဟုတ်ပေါ်မှာ မူတည်တယ်ဆိုတာ ဘုရားက ပြောနေပြီ၊ သူတော်ကောင်းတွေ မဟုတ်ကြရင်တော့ ဝေးမှာပဲ၊ ဒါယကာ ဒါယိကာမတွေက

---

* ဣတိဝုတ်ပါဠိတော် – ၂၅၆။

သာသနာရဲ့ ပြင်ဘက်ကဆိုသော်လဲ ကိုယ်က ညံ့နေပြီး သူတို့က သူတော်ကောင်းတွေဖြစ်နေကြရင် သူတို့ကပဲ ပိုပြီး ဘုရားနဲ့နီးမှာ၊ ဒါကြောင့် ဦးပဥ္စင်းတို့ ကိုရင်တို့ ဘုရားနဲ့နီး အောင် ကြိုးစားလိုက်ကြပါ၊ ကိုယ်ကျင့်သီလတွေ လုံအောင် ထိန်းလိုက်ကြစမ်းပါ၊ စိတ်နေ စိတ်ထား ကောင်းလိုက်ကြစမ်းပါ၊ နီးလျက်နဲ့ ဝေးနေကြပါဦး မယ်၊ ကိုယ့်ကိုယ်ကို နီးတယ်ထင်ပြီး ဝေးနေကြပါဦးမယ်"ဟူ၍လည်းဩဝါဒပေးတတ်သည်။

## လိုရင်းမှာတော့ ကိုယ်တွင်းသီလ မပျက်ဖို့ဘဲ

### သာသနာမှာ တန်ဖိုးဟာ ကိုယ်ကျင့်သီလ

ဦးပဥ္စင်းတို့ ကိုရင်တို့...နေ့စဉ်မှန်မှန် စာကိုလဲ သင်, အကျင့်သိက္ခာလဲ ဖြည့်, ပညာရေး လောမကြီးနဲ့, ဖြည်းဖြည်းသင်, စိတ်ထားကောင်းဖို့လဲ လိုတယ်၊ ဘုန်းကြီးရဲ့ အတွေ့အကြုံတွေအရ ပညာတတ်နေ ရုံနဲ့ မပြီးသေးဘူး၊ ပညာတွေ ဘယ်လောက်ပဲ တတ်နေနေ, စိတ်ထား မကောင်းဘူး, မဖြောင့်ဘူး, ကိုယ်ကျင့်သိက္ခာသီလလဲ မရှိဘူးဆိုရင် သာသနာမှာ ဘာမှ တန်ဖိုး မရှိဘူး၊ ဘုရားကလဲ အဲဒီသူမျိုးကို ကျေနပ်မှာ မဟုတ်ဘူး။

ဒီကျောင်းတိုက်မှာ စိတ်ထားကောင်းကောင်းနဲ့, ကိုယ်ကျင့်သီလ ဖြူဖြူစင်စင်နဲ့နေထိုင်ပြီး ဖြည်းဖြည်းမှန်မှန်သင်သွားရင် ပညာကတော့ မလွဲမသွေ ဧကန်တတ်မှာပဲ၊ အရေးကြီးတာက ကိုယ်ကျင့်သီလဖြည့်ဖို့, ပြည့်စုံဖို့၊ ရရှိပြီးသား ကိုယ်ကျင့်သီလတွေလဲ ပျက်မသွားကြစေနဲ့၊ ဒါဟာ အရေးအကြီးဆုံးပဲ၊ သာသနာမှ ဒါပဲ အနှစ်အသား၊ အပြင်ပိုင်းရုပ်ဝတ္ထုတွေ ပျက်ကုန်တာတောင် အရေးမကြီးသေးဘူး၊ အတွင်းပိုင်း ကိုယ်ကျင့်သီလတွေ မပျက်ဖို့ အရေးကြီးတယ်။

### အပြင်ပိုင်းတွေ ပျက်ချင် ပျက်ပစေ

တချို့ ဒါယကာ ဒါယိကာမတွေက ဘုန်းကြီးကို လျှောက်ကြတယ်၊ "ဒီမဟာဂန္ဓာရုံတိုက်ကြီး အရှင်ဘုရား မရှိရင် ပျက်စီးသွားမှာ စိုးတယ်"တဲ့၊ "အို-ပျက်ပျက်ပေါ့လို့, လေးအသင်္ချေနဲ့ ကမ္ဘာတစ်သိန်း ပါရမီသခင် ဘုရားရှင်ရဲ့ ဇေတဝန်ကျောင်းကြီး တောင် ပျက်သေးတာ, ပျက်သင့်လို့ ပျက်တာတော့ ပျက်ပျက်ပေါ့, မဆန်းပါဘူး"လို့ ပြောလိုက်ရတယ်။

အေး-မပျက်သင့်ဘဲနဲ့ ပျက်မှာကိုတော့ ကာကွယ်ရမှာပဲ၊ ပျက်သင့်လို့ ပျက်တာတော့လဲ ပျက်ပျက်ပေါ့၊ ဒါက အပြင်ပိုင်း ရုပ်ဝတ္ထုတွေပဲ၊ အရေးကြီးတာက အတွင်းပိုင်း သီလ သမာဓိ ပညာတွေ, ကိုယ်ကျင့်သီလတွေ မပျက်ဖို့ဘဲ။

တစ်ခါတုန်းက ရွှေကျင် ဒုတိယသာသနာပိုင် မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးက ကိစ္စတစ်ခုနဲ့ ရန်ကုန်ကို ရောက်နေတယ်၊ အဲဒီ အချိန်မှာ မန္တလေးမှာ ရှိတဲ့ ရှေးတုန်းက (မင်းတုန်းမင်းကြီးလက်ထက်တုန်းက) ရွှေကျင် ပထမသာသနာပိုင် ဆရာတော်ဘုရားကြီးအား မိဖုရားကြီး ဆောက်လုပ်လှူဒါန်းထားတဲ့ အရှေ့ပြင် မဟာဝိသုဒ္ဓါရုံတိုက်ထဲက အလယ်ကျောင်းကြီး မီးလောင် ပျက်စီးသွားဖူးတယ်၊ အဲဒါကို မဟာဝိသုဒ္ဓါရုံဆရာတော်ကြီးအား လျှောက်ထားတဲ့အခါ ဆရာတော်ကြီးက အေးအေး ဆေးဆေးပဲ ဩဝါဒဂါထာရေးပြီး ပြန်ကြားသတဲ့။

**ယံကိဉ္စိ ဗာဟိယံ ဝတ္ထုံ,**
**ယထာကာမံ ပဘိဇ္ဇတု၊**
**အဇ္ဈတ္တမှိ အဘိန္နမှိ,**
**အဘိန္နော ဝေသ ပညာဝါ။**...တဲ့၊

အဓိပ္ပာယ်က "အပေါ်ယံ အပြင်ပန်းမျှဖြစ်တဲ့ ပစ္စည်းလေးပါး ကျောင်းကန်အဆောက်အအုံတွေ ပျက်ချင်တိုင်း ပျက်ပါစေတဲ့၊ အတွင်းပိုင်း သီလ သမာဓိ ပညာတွေ မပျက်ရင် ဒီပညာရှိဟာ ဧကန် မပျက်ပါဘူး"လို့ ဆိုလိုတယ်။

အဲဒီအတိုင်းပဲ ဦးပဥ္စင်းတို့ ကိုရင်တို့လဲ လောကဓံနဲ့ ကြုံလို့ အပြင်ပိုင်း ပျက်စီးတာတွေကို အတွင်းပိုင်း ကိုယ်ကျင့် သီလသိက္ခာတွေ မပျက်အောင်သာ ထိန်းသိမ်းကြပါ"ဟူ၍ ဆုံးမတတ်လေသည်။

# တန်ခိုးပြနိုင်တဲ့ ရဟန်းတစ်ပါး ထားပေးပါဘုရား

## ချွန်ပျံနိုင်တာ အသားမဟုတ်သေး

တစ်ခါတုန်းက ရာဇဂြိုဟ်သူဌေးတစ်ဦးက စန္ဒကူး အနှစ်တုံးကြီးကို သပိတ်အဖြစ် ပွတ်နင်းပြီး အမြင့်မှာ ထားတယ်၊ အတောင် ၆၀ လောက်ရှည်အောင် ဝါးလုံးတွေဆက်ပြီး မြေမှာ စိုက်တယ်၊ ထိပ်ဖျားမှာ သပိတ်ကို ဆွဲထားတယ်၊ "လောကမှာ အစွမ်းရှိတဲ့ ရဟန္တာပုဂ္ဂိုလ်တွေ တန်ခိုးနဲ့ ယူနိုင်လျှင် ယူကြပစေ" လို့လဲ ကြွေးကြော်ထားသတဲ့။

၇ ရက်လောက်ရှိပြီ၊ ဘယ်သူမှ မယူနိုင်ကြဘူး။ ဒီတော့ လူတွေကလဲ ပြောလာကြတယ်၊ "လောက ကြီးမှာ စွမ်းနိုင်တဲ့ ရဟန္တာဆိုတာ မရှိပါဘူး"လို့ အဲဒီ အသံကို အရှင်မောဂ္ဂလ္လာန်နဲ့ အရှင်ပိဏ္ဍောလဘာရ ဒွါဇတို့ ကြားကြတယ်။

ဒါနဲ့ အရှင်မောဂ္ဂလ္လာန်က အရှင်ပိဏ္ဍောလ ဘာရဒွါဇကို ယူဖို့တိုက်တွန်းတော့ အဘိညာဉ်တန်ခိုး နဲ့ ယူတော့တာပေါ့၊ ဒီတော့လဲ လူတွေဟာ တအံ့ တသြနဲ့ ကြည်ညိုကြလွန်းလို့ ဝိုင်းအုံလာကြတယ်၊ ချီးမွမ်းကြ၊ သြဘာပေးကြနဲ့ အရှင်ပိဏ္ဍောလသွားရာ ကို ကြွက်စီ ကြွက်စီနဲ့ တစ်အုံကြီးလိုက်နေကြတယ်။

ဒါကို မြတ်စွာဘုရားကသိတော့ အရှင်ပိဏ္ဍောလ ကို ခေါ်ပြီး အပြစ်တင်တော်မူတယ်၊ ကဲ့ရဲ့တယ်၊ သပိတ်ကိုလဲ ဖျက်ဆီးပစ်စေတယ်၊ ဘုရားရှင်က တန်ခိုးပြတာကို မကြိုက်ဘူး။

## သာသနာရဲ့ အနှစ်အသားဆိုတာ

*တစ်ခါတုန်းကလဲ နာဠန္ဒာမြို့သား "ကေဝဋ္ဋ" ဆိုတဲ့ ဒါယကာတစ်ဦးက မြတ်စွာဘုရားကို လျှောက် ဖူးတယ်။

"ဒီနာဠန္ဒာမြို့ကြီးဟာ လူဦးရေတွေလဲ များ ပါတယ်၊ အိမ်ခြေတွေလဲ များပါတယ်၊ စည်လဲစည် ကားတယ်၊ ကြည်ညိုကြတယ်၊ ပို၍ ကြည်ညိုမှုများ အောင် ဒီမြို့ကြီးမှာ တန်ခိုးနဲ့ မြေလျှိုး မိုးယံ ချွန်ပျံ နိုင်တဲ့ ရဟန်းတစ်ပါးကို သာသနာပြုပုဂ္ဂိုလ်အဖြစ် ထားပေးပါဘုရား"တဲ့။

ဒီတော့ မြတ်စွာဘုရားက "ချွန်ပျံတယ်ဆိုတာ အဘိညာဉ်ရဲ့ အစွမ်းမျှသာ ဖြစ်တယ်၊ ချွန်ပျံ၍ ပြပြနေလျှင် ဂန္ဓာရီဝိဇ္ဇာမိုရ်ပုဂ္ဂိုလ်တို့လောက်သာ အံ့သြဖွယ်အဖြစ်နှင့် လေးစားကြလိမ့်မယ်၊ အံ့သြ စရာကောင်းရုံ အဖြစ်မျှသာ ပရိသတ်က ခံယူကြ လိမ့်မယ်၊ သာသနာတော်၏ အနှစ်သာရ သီလ သမာဓိ ပညာတို့ကိုပင် ကြည်ညိုလေးစားရကောင်း မှန်း သိတော့မည် မဟုတ်ပေ"ဟူ၍ မိန့်တော်မူပြီး လျှင် ပယ်မြစ်တော်မူတယ်။

ဒါကြောင့် သာသနာတော်ရဲ့ အနှစ်အသားဟာ သီလ သမာဓိ ပညာပဲ၊ ဒီ သီလ သမာဓိ ပညာတွေ ဆိုတာက ဘုရားသာသနာခေတ်နဲ့ ကြုံမှ တွေ့ရတာ၊ ချွန်အဘိညာဉ်တန်ခိုးတွေဆိုတာက သာသနာပမှာ လဲ ရှိတာပဲ၊ အနှစ်အသား မဟုတ်သေးဘူး။

ဒါကြောင့် ဦးပဉ္ဇင်းတို့ ကိုရင်တို့ ကံကောင်းလို့ တွေ့ရခိုက်မှာ ဖြိုက်ဖြိုက်မြိုက်မြိုက်ကြီး ဖြည့်လိုက် ကြပါ၊ သီလသိက္ခာတွေ ပြည့်အောင် ဖြည့်လိုက်ကြ ပါ' ဟူ၍ တိုက်တွန်းရင်း သြဝါဒတွေ ပေးတော်မူ တတ်သည်။

---

* ဒီပ၊ ကေဝဋ္ဋသုတ် – ၂၈၅။

## ဆရာတော့်ထံမှ ပေးစာ ပြန်စာများ

### ပတ်ဝန်းကျင်နဲ့ ဘယ်လို ဆက်ဆံသလဲ

ဆရာတော့်မှာ ရပ်နီးရပ်ဝေးပတ်ဝန်းကျင် ရဟန်းသံဃာတော်များ, ဒကာ ဒကာမများနှင့် ဆက်ဆံရသော ကိစ္စများ ရှိတတ်ပါ၏၊ ရပ်ဝေးဆိုလျှင် စာပေးစာယူစနစ်ဖြင့် ဆက်ဆံရတတ်သည်၊ ထိုအခါ ဆရာတော့်ထံမှ ကိုယ်တိုင်လက်ရေးကလေးများကို မြင်ရတော့သည်၊ အများအားဖြင့် ဆရာတော်၏ ကျမ်းစာတို့ကိုသာ ဖတ်ရ၍ ကြည်ညိုနေရသော်လည်း လက်ရေးကိုကား မမြင်ဖူးကြချေ၊ ထို့ကြောင့် တစ်ဦးဦးမှာ "ဆရာတော့်ထံမှ ပြန်စာရသည်"ဟု ဆိုလျှင် ဝိုင်းအုံ၍ အလုအယက် ကြည့်ရှုတတ်ကြ၏၊ ဆရာတော့်လက်ရေးကလေးများအပေါ် ပြုံးရွှင်စွာဖြင့် ငေးစိုက်မိန်းမောနေတတ်ကြသည်။

သို့ဖြစ်၍ ယခုအခါတွင် ဆရာတော်၏ ကိုယ်တိုင်လက်ရေးကလေးများကို စာဖတ်ပရိသတ်များ မြင်စေ တွေ့စေလို၍လည်းကောင်း, ထို့ပြင် တစ်ဖန် ဆရာတော်၏ ပေးစာ ပြန်စာများတွင် (တရားနှင့် လက်မလွတ်စေဘဲ) တရားသဘောကလေးများ ပါတတ်သည်ကို စာဖတ်ပရိသတ်များ သိစေလို၍လည်းကောင်း ဤနေရာ၌ အချို့အဝက်ကို ဖော်ပြလိုက်ပါသည်။

### ပဲခူးမှ နဝကမ္မ ၂၅၀၀ ကျပ်လှူ

၁၃၃၄ ခု ပြာသိုလဆုတ် ၂ ရက်နေ့က ပဲခူးမြို့ ရွှေခြူးဆေးလိပ်ခုံပိုင်ရှင် ဦးသူတော်အမှူးပြုသော ဒကာ ဒကာမများက (ဒေါ်ခင်ကြည်မှတစ်ဆင့်) အမရပူရ မဟာဂန္ဓာရုံသံဃာတော်များ ဆွမ်းဆန်တော်အတွက် ငွေ ၂၅၀၀ ကျပ်ကို ပေးပို့လှူဒါန်းသည်၊ ထိုငွေများ ရကြောင်း ပြေစာဖြတ်ပိုင်းနှင့် ဆရာတော်၏ အနုမောဒနာကထာကို ပြန်လည်ပေးပို့သည်၊ ပြေစာကို ကပ္ပိယကာရကဒကာကြီး ဦးကျော်ဝင်း လက်မှတ်ထိုး၍ ယူရသည်၊ ပြန်လည်ချီးမြှင့်သော ဆရာတော်၏ အနုမောဒနာကထာမှာ အောက်ပါအတိုင်း ဖြစ်၏။

**သို/**

**သာသနာပြု ဒါယကာကြီးအမှူးရှိသော**
**အသင်းသူ/အသင်းသားများထံ**

သတ္တဝါတို့၏ ခန္ဓာကိုယ်သည် နှစ်စဉ် လစဉ် နေ့စဉ် အချိန်ကာလတိုင်း အို၍ နာ၍ နေ၏၊ ထိုအိုခြင်းတရားသည် မသေမချင်း အိုနေမည်သာဖြစ်၍ သေသော အခါရောက်မှ (အအို)လည်း တစ်ဘဝအတွက် ရပ်နား တော့၏၊ နောက်တစ်ဘဝ စမိပြန်လျှင် ထိုအအိုသည် ပေါ်လာပြန်၏။

အားလုံးသူတော်ကောင်းတို့၌ရှိသော သီလ (ငါးပါး သီလ)နှင့် ဒုစရိုက်ဆယ်ပါးမှ ရှောင်ကြဉ်မှု အာဇီဝဋ္ဌမက သီလသည်ကား အိုသည် ဟူ၍ မရှိဘဲ အမြဲစိုပြေလန်း ဆန်း၍ နေ၏။

ဤတစ်ဘဝ တစ်လျှောက်လုံးလည်း ကောင်းသော အကျိုးကို အခွင့်ရတိုင်း ပေးနေ၏၊ နောက်ဘဝရောက်လျှင် စားဝတ်နေရေးအတွက်အကောင်းအမွန်ချည်း ဖြစ်အောင် အသင့်ပြင်ဆင်ပေး၏။

သို့အတွက် ယခုဘဝခန္ဓာကိုယ်ကို အရင်းပြု၍ သီလကို မပျက်စေဘဲ အမြဲသစ်လွင်နေအောင် ကြိုးစားကြရန် သတိပေးစကား ရေးသားအပ်ပါသည်။

**သီလံ ယာဝ ဇရာ သာဓု, သဒ္ဓါ သာဓု ပတိဋ္ဌိတာ၊**
**ပညာ နရာနံ ရတနံ, ပုညံ စောရေဟိ ဒူဟရံ။**

သီလသည် အိုသည့်တိုင်အောင် ကောင်း၏၊ ရတနာသုံးတန် ကံ-ကံ၏ အကျိုး၌ ယုံကြည်မှု သဒ္ဓါသည် စွဲမြဲ တည့်တံ့လေ ကောင်းလေဖြစ်၏၊ အသိအလိမ္မာ ဉာဏ် ပညာသည် လူအများအတွက် အဖိုးတန်ရတနာပင် ဖြစ်၏၊ ပြုအပ်ပြီးသော ကောင်းမှုကုသိုလ်ဟူသမျှကို သူခိုးစားပြတို့ မဆောင်ယူနိုင် (မလုယူနိုင်) ကိုယ်ပိုင် ဥစ္စာအစစ် ဖြစ်ပါသတည်း။

(သဂါထာဝဂ္ဂသံယုတ် ပါဠိတော်)

**ဦးဇနကာဘိဝံသ**

၃၄ ခု ပြာသိုလဆုတ် ၄ ရက်

**ဒကာထိန်ဝင်းထံ ပေးစာတွင်**

မြတ်စွာဘုရားတရားတော် ဆိုသည်မှာ တမင် တကာ ကြံစည်တွေးတောနေရသော တရားမျိုး မဟုတ်၊ လောက၌ တကယ်ရှိနေသည်ကို ရှိသည့် အတိုင်း ထုတ်ပြတော်မူခြင်းသာ ဖြစ်ကြောင်း။

ဗုဒ္ဓမြတ်စွာသည် ရုပ်နာမ်တို့၏ အနိစ္စ ဒုက္ခ အနတ္တ အဖြစ်ကို ကြံဖန်၍ ဟောတော်မူသည် မဟုတ်၊ အနိစ္စအစစ်မို့ အနိစ္စဟု ရှုကြ၊ ဒုက္ခအစစ်မို့ ဒုက္ခဟု ရှုကြ၊ အနတ္တအစစ်မို့ အနတ္တဟု ရှုကြ ဟူ၍သာ တိုက်တွန်းတော်မူကြောင်း။

သတ္တဝါတွေဟာ နိစ္စထင် သုခထင် အတ္တထင်နေ ကြသဖြင့် ရုပ်နာမ်ခန္ဓာပေါ်၌ လောဘ ဒေါသ မာန် မာန ဣဿာ မစ္ဆရိယတွေ တိုးပွားနေကြကြောင်း။

ထို့ကြောင့် ဘုရားရှင်က မိန့်တော်မူသည်မှာ "ငါ က လောကကြီးနှင့် ငြင်းမနေပါ၊ လောကကြီးကသာ ငါနှင့်ငြင်းနေသည်၊ ငါဘုရားက အနိစ္စလောကမို့ အနိစ္စလို့ ဟောတယ်၊ သတ္တလောကကြီးက "နိစ္စ"လို့ ငါနှင့် ငြင်းနေသည်"တဲ့။

ဤသို့ စသည်ဖြင့် မည်သူ့ထံပေးပေး၊ ပေးစာတိုင်း လိုလိုပင် တရားသံပါ၍ တရားလက်မလွတ်စေဘဲ ရေး တတ်သည်ကို လေ့လာနိုင်ရန်တင်ပြလိုက်ပါသည်။

**ညွှန့်-သန်း/ ကျောင်းအမများ**

ဘုန်းကြီးကို အားကိုးတဲ့သူဟာ တရားလမ်းမှန် ကိုလည်း အားကိုးရပါတယ်၊ တရာတော်အတိုင်း ကြိုးစား၍ လိုက်ရပါတယ်။

၁။ တရားတော်က "နိဗ္ဗာန်အထိ သွားရမည့် သံသရာ ခရီးကြီးဟာ ရှည်လည်း ရှည်တယ်၊ ဘေးရန်အန္တရာယ် တွေလည်း ဘဝတိုင်းမှာ များတယ်၊ ဒီလို သတိပေး ထားပါတယ်။

၂။ ဒီလိုခရီးကို မရှောင်သာလို့ သွားနေရတဲ့သူတိုင်း နိဗ္ဗာန်အထိ မှန်းမျှော်၍ ကြည့်လေ့ရှိပါတယ်၊ ဒီလို ကြည့်လိုက်တဲ့အခါ ဒီဘဝမှာတွေ့ရတဲ့ ဆွေမျိုးဆိုတာ ခဏတွေ့ရတာပဲ၊ ယခုတွေ့နေပေမယ့် အချိန်ကျတော့ ဘယ်သူမဆို ကိုယ့်လမ်းကိုယ် ခွဲသွားကြရမှာပဲ။



စသည်ဖြင့် ရေးသားထားသည်ကို စာဖတ်ပရိသတ်များ လေ့လာနိုင်ရန် တင်ပြလိုက်ပါသည်၊ ဤစာပိုဒ်တို့အရ ဆရာတော်ကို လုံ့လဝီရိယ စေတနာ သဒ္ဓါ သတိ ပညာတို့ဖြင့် အလုပ်ခွင်၌ စိတ်အားထက်သန်စွာ လှုပ်ရှားလုပ်ကိုင်နေသည်ကို မြင်ဝနရသလို ဖြစ်သည်။



ဆရာတော်၏ လက်ရေးပြန်စာများ

၃။ ပစ္စည်းဥစ္စာဆိုတာလဲ ခဏပိုင်တာ ဖြစ်တယ်၊ အချိန်ကျတော့ အားလုံးထားပစ်ပြီး တစ်ကိုယ်တည်း သွားရမှာပဲ၊ အချစ်ဆုံးဆိုတဲ့ ခန္ဓာကိုယ်တောင် ထားပစ်ခဲ့ရမယ်၊ ရှေးဘဝ ဒီဘဝ ပြုသမျှ အကောင်း အဆိုး ကံကိုသာ ယူသွားရမယ်။

၄။ ဘုရားရှင်သည် အကောင်းကံတွေကို ဘဝတိုင်း ပြုခဲ့လို့ ကံကောင်းများပြီး ဘုရားဖြစ်ရတယ်၊ မိမိတို့လဲ ကံဆိုးတွေ နည်းအောင် ရှောင်ပြီး ကံကောင်းတွေ များအောင် နေ့စဉ်ကြိုးစားဖို့ အရေးကြီးတယ်။

၅။ ကံကောင်းဆိုတဲ့အထဲမှာ အခြေခံအကောင်းဆုံးကံဟာ ငါးပါးသီလ ဖြစ်တယ်၊ ထို့နောက် စီးပွားရှာတဲ့အခါမှာ မတရား မရှိအောင် အာဇီဝဋ္ဌမကသီလ ဖြစ်တယ်၊ ဒါထက် တိုးပြီး တက်နိုင်လျှင် ဥပုသ်သီလ ဖြစ်တယ်။

၆။ သီလမစောင့်ဘဲ ဘာဝနာကို တက်လို့ မဖြစ်နိုင်ဘူး၊ သီလမစောင့်ရင် ဒါနတောင် မသန့်ရှင်းဘူး၊ သူများ အထင်မသေးအောင်, ဂုဏ်ရှိအောင် ပြုတဲ့ ဒါနဟာ အစဉ် ညံ့တဲ့ဒါန ဖြစ်တယ်။

၇။ ခုခေတ်လုပ်နေကြတဲ့ ဒါနတွေဟာ အချို့မှာ အကျိုးမရဘဲ အပြစ်တောင် ရှိသေးတယ်၊ အားလုံး ဒါန သီလ ဘာဝနာကို သံသရာအတွက် အစာရိက္ခာ ကောင်းကောင်း ဖြစ်အောင် ကြိုးစားကြပါ၊ သံယောဇဉ်အတွက် စိတ်သောကများပြီး စိတ်အားမငယ်ကြပါနှင့်၊ သတ္တိရှိရှိနှင့် သံသရာ ခရီးအရှည်ကြီးကို သွားနိုင်အောင် အရာရာ သတိရှိကြပါ။

ဒကာထိန်ဝင်းသည် ဆရာတော်၏ သာသနာပြုလုပ်ငန်းများကို ရင်းနှီးစွာ ကူညီခဲ့သူဖြစ်၏၊ သို့ဖြစ်၍ **ဒကာထိန်ဝင်းထံသို့ စာပြန်ရာတွင်**...

"သာသနာရေးအလုပ်သည် စေတနာရိုးသားသူအတွက် အလွန်ရင့်ကျက်သော ပါရမီဖြစ်ကြောင်း" ဟူ၍လည်းကောင်း၊

"ဘုန်းကြီးတို့ ဘုရားအလောင်း(ဇနကမင်းသား) သည် ကမ်းမမြင်ရသော သမုဒ္ဒရာကို ကူးစဉ်မှာပင် ဝီရိယကို မလျှော့ချခဲ့ပါ။

ဘုန်းကြီးတို့အလုပ်ကား ကမ်းကို မမြင်ရသော်လည်း မှန်းနိုင်ပါပြီ"ဟူ၍လည်းကောင်း၊

"ကျေးဇူးရှင် ဆရာတော်များ၏ ချီးမြှောက်မှု, ဒကာထိန်ဝင်းတို့ကဲ့သို့ ဒကာရင်းများ၏ ထောက်ပံ့ကူညီမှုတို့သည် အချည်းအနှီး မဖြစ်ဘဲ ရည်ရွယ်သလောက် အကျိုးသက်ရောက်၏"ဟူ၍လည်းကောင်း...စသည်ဖြင့် ရေးသားထားသည်ကို စာဖတ်ပရိသတ်များ လေ့လာနိုင်ရန် တင်ပြလိုက်ပါသည်၊ ဤစာပိုဒ်တို့အရ ဆရာတော့်ကို လုံ့လ ဝီရိယ စေတနာ သဒ္ဓါ သတိ ပညာ တို့ဖြင့် အလုပ်ခွင်၌ စိတ်အားထက်သန်စွာ လှုပ်ရှားလုပ်ကိုင်နေသည်ကို မြင်နေရသလို ဖြစ်သည်။

အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက် အတွင်း၌ ညွန့်ညွန့်, သန်းသန်း ဟူသော ညီအစ်မနှစ်ဦးက ကျောင်းကြီးတစ်ဆောင် ဆောက်လုပ်လှူဒါန်းကြသဖြင့် "ကျောင်းအမများ"ဖြစ်နေကြ၏၊ ယင်းကျောင်းအမများထံသို့ ဆုံးမစကား ဩဝါဒများ ပေးရာတွင် အောက်ပါအတိုင်း ရေးသားထားသည်ကို တွေ့ရသည်။

၁။ "နိဗ္ဗာန်အထိ သွားရမည့် သံသရာခရီးကြီးဟာ ရှည်လည်း ရှည်တယ်၊ ဘေးရန်အန္တရာယ်တွေလည်း ဘဝတိုင်းမှာ များတယ်လို့ တရားတော်က သတိပေးထားတယ်။

၂။ ဒီလိုခရီးကို မရှောင်သာလို့ သွားနေရတဲ့သူတိုင်း နိဗ္ဗာန်အထိ မှန်းမျှော်၍ ကြည့်လေ့ရှိရပါတယ်၊ ဒီလို ကြည့်လိုက်တဲ့အခါ ဒီဘဝမှာတွေ့ရတဲ့ ဆွေမျိုးဆိုတာ ခဏတွေ့ရတာပဲ၊ ယခုတွေ့နေပေမယ့် အချိန်ကျတော့ ဘယ်သူမဆို ကိုယ့်လမ်းကိုယ် ခွဲသွားကြရမှာပဲ။

၃။ ပစ္စည်းဥစ္စာဆိုတာလဲ ခဏပိုင်တာ ဖြစ်တယ်၊ အချိန်ကျတော့ အားလုံးထားပစ်ပြီး တစ်ကိုယ်တည်း သွားရမှာပဲ၊ အချစ်ဆုံးဆိုတဲ့ ခန္ဓာကိုယ်တောင် ထားပစ်ခဲ့ရမယ်၊ ရှေးဘဝ ဒီဘဝ ပြုသမျှ အကောင်းအဆိုး ကံကိုသာ ယူသွားရမယ်။

၄။ ဘုရားရှင်သည် အကောင်းကံတွေကို ဘဝတိုင်း ပြုခဲ့လို့ ကံကောင်းများပြီး ဘုရားဖြစ်ရတယ်၊ မိမိတို့ လဲ ကံဆိုးတွေ နည်းအောင် ရှောင်ပြီး ကံကောင်းတွေ များအောင် နေ့စဉ်ကြိုးစားဖို့ အရေးကြီးတယ်။

၅။ ကံကောင်းဆိုတဲ့အထဲမှာ အခြေခံမှာအကောင်းဆုံးကံဟာ ငါးပါးသီလ ဖြစ်တယ်၊...စသည်ဖြင့် ဖော်ပြရေးသားထားသည်ကို တွေ့နိုင်ပါသည်။

ကျောင်းအမ ညွန့်ညွန့်, သန်းသန်းတို့ထံ ဆုံးမဩဝါဒစကားရေးသားသော စာတစ်စောင်တွင် ဤသို့ ရေးသားထားသည်ကို တွေ့ရပါသည်။

"ဘုန်းကြီးသည် မည်သူ့ကိုမျှ နစ်နာအောင် မိမိက မပြောခဲ့၊ မလုပ်ခဲ့၊ သို့သော် မိမိဘာသာ တိုးတက်အောင် အလုပ် လုပ်နေသောကြောင့် တိုးတက်

နေသည်ကို မနာလိုသော ပုဂ္ဂိုလ်များက သူတစ်ပါး အထင်လွဲအောင် ပြောကြ ဟောကြသည်၊ အမျိုးမျိုး အထင်လွဲ အမြင်လွဲ ခံခဲ့ရ၏၊ နောက်တော့ ပြောတဲ့ သူတွေဟာ သူတို့ဒဏ် သူတို့သာ ခံကြရရှာသည်၊ မိမိကား သည်းခံနေခဲ့၏၊ ထိုကဲ့သို့ ကြုံလာသော အခါ သည်းခံတတ်တဲ့သူအတွက်တော့ (ပါရမီဆယ် ပါးတွင်) ခန္တီပါရမီကုသိုလ် အကြီးစားတစ်မျိုးကို ရရှိပါသည်။

ထိုသို့ ခန္တီပါရမီကုသိုလ်ရပုံကို သတိပြုမိသော အခါ သူတို့မှာ ဖြစ်သော ဣဿာသည် မိမိမှာ အလွန်အဖိုးတန်သောကုသိုလ်ကို ရနိုင်ဖို့အကြောင်း ဖြစ်ပါတကားဟု တွေးနိုင်သောကြောင့် ဝမ်းမနည်း ဘဲ ဝမ်းသာအားရဖြင့် သည်းခံနိုင်သော သတ္တိတစ် မျိုးကို ရနိုင်ပါသည်"...စသည်ဖြင့် ဖော်ပြရေးသား ထားပါ၏။

ရောဝတီတိုင်း လပွတ္တာမြို့ လေးထပ်ကျောင်း ဆရာတော် ဦးကုသလသည် အရှင်ဇနကာဘိဝံသ နှင့် ငယ်စဉ်ကပင် အတူနေခဲ့ကြရ၏၊ မြောင်းမြ ဆရာတော်လောင်း ပလိပ်မြို့ကလေး အေးကျောင်း မှာ ကျောင်းထိုင်စဉ်ကပင် ဆရာဘုန်းတော်ကြီး၏ အထံ၌ (ဆရာတူ တပည့်အဖြစ်) အတူနေခဲ့ကြရ သည်၊ စိတ်တူ ကိုယ်တူ ဆန္ဒတူသဖြင့် တစ်ဦးနှင့် တစ်ဦး အလွန်ရင်းနှီးခဲ့ကြ၏၊ သံယောဇဉ်လည်း ကြီးခဲ့ကြ၏၊ တစ်ပါးအပေါ် တစ်ပါး မေတ္တာလည်း ထားကြသည်။

ငယ်စဉ်က နှစ်ပါးလုံးပင် ဘုန်းကံနည်းပါးခဲ့ကြ ၏၊ ဆရာကောင်း သမားကောင်းထံ ချဉ်းကပ်ခွင့် ရသော ကုသိုလ်ကံများ ပါခဲ့ကြ၍ စာပေပရိယတ္တိ တို့၌ တော်ကြသော်လည်း ပစ္စည်း လာဘ်လာဘ ဘုန်းကံကား နှစ်ပါးလုံးပင် နည်းပါးခဲ့ကြရှာသည်။

ယခုလို ကိုယ့်ကျောင်း ကိုယ့်ကန်ဖြင့် နေထိုင်ပြီး အလုပ် လုပ်၍ လာခဲ့ကြရာ အသက်အရွယ် ရင့် ညောင်း၍ နောက်ပိုင်းသို့ ရောက်သောအခါမှ အထိုက်အလျောက် ပြည့်စုံလာကြသည်၊ နာမည် များလည်း ကျော်ကြားလာကြ၏၊ ဤသို့ ဖြစ်လာချိန် တွင် ထိုဆရာတော့်ထံသို့ အရှင်ဇနကာဘိဝံသက စာရေးရာ၌...

"အရှင်ဘုရား၊ တပည့်တော်နှင့် အရှင်ဘုရားပါ ဆရာတူ တပည့်တို့သည် ငယ်စဉ်က စ၍ အရွယ် ကောင်းသည့်တိုင်အောင် ဘုန်းကံနည်းပါးခဲ့ကြပါ သည်၊ ပွဲပြီးခါနီးမှ ရကြသော နေရာကောင်းကိုဖြင့် အထင်ကြီးစွာ သာယာပြီး မနေသင့်ပါဘုရား"... စသည့် အကြောင်းအရာများပါသော ပေးစာကို တွေ့ရှိကြရသဖြင့် ဆိုင်ရာ ဒါယကာ ဒါယိကာမတို့ မှာ ရင်နာကြရ၏၊ စိတ်မကောင်းခြင်း ကြီးစွာ ဖြစ် ကြရသည်၊ တရားသံဝေဂလည်း ဖြစ်မိကြတော့၏။

တစ်ခါတွင် လပွတ္တာမြို့ လေးထပ်ကျောင်း ဆရာ တော် ဦးကုသလသည် ကျန်းမာရေးနည်းပါးနေခဲ့ သည်၊ ယင်းအကြောင်းအရာကို ဆရာတော် အရှင် ဇနကာဘိဝံသထံသို့ စာပေးခဲ့ဖူး၏၊ ယင်းစာအတွက် စာပြန်ရာ၌...

"ဗုဒ္ဓမြတ်စွာ၏ တရားတော်သည် တိတိကျကျ လိုက်နာလျှင် "ဓမ္မော ဟဝေ ရက္ခတိ ဓမ္မစာရီ" အတိုင်း အမှန်ပင် ပြန်၍ စောင့်ရှောက်ပါသည်၊ "စောင့်ရှောက်"ဟူရာ၌ ဤတစ်ဘဝအတွက် စောင့် ရှောက်ခြင်းသည် ပထမဇောစေတနာအကျိုးမျှသာ ဖြစ်၍ မပြောပလောက်သေးပါ၊ ဒုတိယဘဝမှစ၍ စောင့်ရှောက်မည့်အချက်က သာ၍ အားတက်စရာ ရှိပါသည်။

အရှင်ဘုရားသည် ကျန်းမာရေးမကောင်းလျှင် တပည့်တော်ဆီ လာပြီး သီတင်းသုံးဖို့ရန် ဖိတ်မန် ပါသည်၊ တပည့်တော်၏ အလိုကတော့ "ဖြစ်ချင်ရာ ဖြစ်၊ စိတ်မညစ်နှင့်"ဆိုတဲ့အတိုင်း စိတ်ညစ်လေ့ မရှိပါ။

ဒီလောကကြီး၌ မိမိခန္ဓာနှင့်တကွ သက်ရှိသက်မဲ့ အခြွေအရံ အားလုံးပင် တန်ဖိုးကြီးလှသည် မဟုတ် ပါ၊ အလွန်ကြီး မကြာသောကာလ၌ အားလုံးကို စွန့်ခွာ၍ မိမိ ကံညွှန်ရာသို့ သွားရမည်သာ ဖြစ်ပါ သည်"ဟူ၍လည်းကောင်း၊

"တပည့်တော်၏ နေရာ၌ ယခုဝါ သံဃာ ၅၀၀ ကျော်၊ ဖိုးသူတော် ၃၀ ခန့်ဖြင့် စား-နေတာဝန် အလွန်ကြီးသော်လည်း မှုတပါသေးသည်၊ တပည့် တော်ရဲ့ ကျန်းမာရေးလည်း အလုပ်လုပ်မြဲတာဝန်ကို ထမ်းနိုင်ပါသေးသည်"ဟူ၍လည်းကောင်း...

တစ်ပါးနှင့်တစ်ပါး အပြန်အလှန်ရေးသားကြ သော စာတို့အရ ဆရာတော်နှစ်ပါး၏ အခြေအနေ ကို တစေ့တစောင်း လေ့လာနိုင်ခွင့်ရပါသည်။

၁၃၃၄ ခု ပြာသိုလဆန်း ၇ ရက်နေ့ကလည်း ရန်ကုန်မြို့မှ ဒါယကာ ဦးသန်းနှင့် ဒါယိကာမ ဒေါ်ရင်မေတို့ထံ အောက်ပါအတိုင်း ဆရာတော်ကိုယ်တိုင် စာပြန်သည်။

သို့-

**ဒါယကာဦးသန်း+ဒါယိကာမဒေါ်ရင်မေထံ**

လူကြုံဖြင့် ပို့လိုက်သောငွေများ ကပ္ပိယကာရကဒါယကာကြီးထံ ၅ ရက်နေ့က ရောက်၏၊ ဒါယကာကြီးက ၆ ရက်နေ့မှ ဘုန်းကြီးထံ "အပ်သောပစ္စည်း ၂၀၀ ကျပ်စာန်ကို အလိုရှိသောအခါ အလှူခံပါ"ဟု လျှောက်သည်။

ထိုသို့ လျှောက်မှလည်း ဘုန်းကြီးက သံဃာများ၏ ဆွမ်းအတွက်, ကျောင်းတိုက်၌ လိုအပ်သောဝတ္ထုအတွက် တောင်းကောင်းပါသည်၊ (ကျောင်းတိုက် သံဃာ ဝါတွင်းက ၅၀၀ ကျော်, ယခု ၄၀၀ ကျော်ရှိ၏၊ အားလုံး အတူစား ဖြစ်သည်။)

ဘုန်းကြီးတို့ သာသနာတော်၌ ဗုဒ္ဓမြတ်စွာ၏ ဝိနည်းတော်သည် ရဟန်းသံဃာများ လိုက်နာ ပြုကျင့်ရမည့် သီလဖြစ်၏၊ ထိုသီလကိုပင် သိက္ခာဟုခေါ်၏၊ သီလသိက္ခာကို မကျင့်လျှင် ကျမ်းစာတွေ မိုးထိအောင် တတ်၍ စာမေးပွဲတွေ ထိပ်ဆုံးအထိ အောင်နေသော်လည်း သာသနာတော်ကို ကြာရှည်အောင် မထိန်းနိုင်ပါ။

ထို့အတူ လူ့ဝတ်ကြောင်များမှာလည်း လူ၏ဆိုင်ရာ ငါးပါးသီလ, ဒုစရိုက်မှ ရှောင်သော သုစရိုက် ဆယ်ပါးသည် ခါးဝတ်ကဲ့သို့ လုံရမည့်သီလဖြစ်၏။

ထိုသီလမလုံဘဲ ဒါနက ကျောင်း ဘုရား တည်ဆောက် ကိုးကွယ်နေသော်လည်း အဝတ်စုတ်ကို ဝတ်ပြီး စိန် ရွှေ ဆင်ထားသူကဲ့သို့ ဖြစ်၏။

ရဟန်းဖြစ်စေ, လူ့ဝတ်ကြောင်ဖြစ်စေ သေခါနီး၌ ပေါက်ပျက်နေသော သီလကို သတိရနေလျှင် ဧကန်ကောင်းသောဘဝသို့ မရောက်နိုင်ပါ။

ထို့ကြောင့် ရဟန်း ရှင် လူ မည်သူမဆို, ဆိုင်ရာ သီလကို လုံခြုံအောင် ထိန်းရမည်သာ ဖြစ်၏၊ ကမ္မဋ္ဌာန်းအားထုတ်သော ယောဂီပုဂ္ဂိုလ်ဖြစ်လျှင် သာ၍ သီလစင်ကြယ်ဖို့ အရေးကြီးပါသည်။

သီလစင်ကြယ်နေလျှင် သမာဓိရဖို့ လွယ်၏၊ သမာဓိ မှန်မှန်ရမှ အထက် ဝိပဿနာပညာမှန်ကို ရနိုင်ပါသည်၊ ဤလမ်းစဉ်ကို ဖယ်၍ သီလကို ဂရုမစိုက်လျှင် မှန်ကန်သော သမာဓိ, မှန်ကန်သော ပညာကို မရနိုင်ဘဲ, အတုသမာဓိ အတုပညာသာ ရနိုင်ပါလိမ့်မည်။

**တောင်မြို့ဘုန်းကြီး**

[ဒေါ်ကြည်ကြည်အထံသို့လည်း ယနေ့ပင် စာပြန်လိုက်ပါသည်။]

တစ်ချိန်တုန်းက အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်တွင် ဗုဒ္ဓဘာသာတရားတော်များ လေ့လာရန် အနောက်ဂျာမဏီသူ (မြန်မာနာမည်) ဥမ္မာခင် နေထိုင်သွားဖူး၏၊ တရားတော်များ လေ့လာပြီးလျှင် သူ၏နိုင်ငံ အနောက်ဂျာမဏီ **Frank Furi** မြို့သို့ ပြန်သွားသည်။

တစ်နေ့တွင် အနောက်ဂျာမဏီမှ ဆရာတော်ကြီးထံသို့ ဝါကျွတ်ကန်တော့သော စာတစ်စောင် ရောက်လာ၏၊ ယင်းစာအတွက် ဆရာတော်ကြီးက အောက်ပါအတိုင်း ပြန်စာရေးသည်။

တန်ဆောင်မုန်းလဆန်း ၁ ရက်

ဥမ္မာ-

သီတင်းကျွတ်ကန်တော့စာကို ရပါသည်၊ ဗုဒ္ဓမြတ်စွာသည် မဟာပရိနိဗ္ဗာနသုတ်၌ အပါယ်မလားနိုင်သော ဂုဏ်များကို ဟောတော်မူ၏။

၁။ ငါးပါးသီလကို အလွန်စင်ကြယ်စွာ စောင့်ထိန်းခြင်း၊

၂။ မြတ်စွာဘုရား၏ အရဟံ အစရှိသော ဂုဏ်တော် ၉ ပါးကို ဉာဏ်ဖြင့်လည်း သိ, သဒ္ဓါဖြင့်လည်း ယုံကြည်ခြင်း၊

၃။ တရားတော်၏ ဂုဏ်တော် ၆ ပါးကိုလည်း သိရုံမက ယုံကြည်ခြင်း၊

၄။ သံဃာ (အရိယာ)၏ ဂုဏ်တော် ၉ ပါးကိုလည်း သိရုံမက ယုံကြည်ခြင်း။

ဤ အင်္ဂါ ၄ ပါးနှင့် ပြည့်စုံသူကို "သောတာပန်"ဟု မိန့်တော်မူပါသည်၊ ထိုသူသည် အပါယ်မကျနိုင်တော့ပါ။ ဥမ္မာလည်း ထိုသို့ ဖြစ်အောင် ကြိုးစားပါ၊ သောတာပန်အစစ်ဖြစ်သူသည် ဣဿာ(ကိုယ့်ထက်သာ မနာလိုမှု), မစ္ဆရိယ (စွန့်ကြဲပေးကမ်းဖို့ နှမြောဝန်တိုမှု)မရှိ၊ ထို့ကြောင့် ထို ဣဿာ, မစ္ဆရိယ နှစ်ပါး မရှိအောင်လည်း သတိထားလိုက်ပါ။

**ဦးဇနကာဘိဝံသ**

**အမရပူရ မြန်မာပြည်**

တစ်ခါက "နိုင်ငံတကာ စာအုပ်နှစ်" အထိမ်းအမှတ်အဖြစ် "စာအုပ်ဟူသည်"ဟူသောအမည်ဖြင့် စာရေးဆရာ မောင်ဆုရှင်နှင့်မောင်ပေါ်ထွန်းတို့က ထုတ်ဝေကြမည်ဖြစ်၍ ဆရာတော့်ထံသို့ ထင်မြင်ချက် တောင်းကြလေသည်၊ ယင်းစာအတွက် ဆရာတော်က အောက်ပါအတိုင်း စားပြန်ရေးလေသည်။

သီတင်းကျွတ်လဆုတ် ၉ ရက်

စာ(သို့မဟုတ်)ကျမ်းစာ၏ အရေးပါ အရာရောက်မှုသည် ဘုန်းကြီးတို့၏သာသနာတော်အတွက် အလွန်ထင်ရှားခဲ့၏၊ ဗုဒ္ဓမြတ်စွာ၏တရားတော်များသည် ယခုအချိန်၌ ကျမ်းစာအဖြစ်ဖြင့် တည်တော်မမူပါလျှင် အလွန်အဖိုးထက်သော ဓမ္မစကြာ, အနတ္တလက္ခဏသုတ်, မဟာသတိပဋ္ဌာန်, ပဋိစ္စသမုပ္ပါဒ်စသောတရားရတနာများသည်လည်းကောင်း, သာသနာတော်၏အခြေခံဖြစ်သော ဝိနည်းတရားတော်သည်လည်းကောင်း ကွယ်ပ၍ သာသနာတော်တစ်ရပ်လုံး ကုန်ဆုံးသလောက် ဖြစ်စရာရှိ၏၊ ထို့ကြောင့် ကျမ်းစာသည် အရေးပါသလောက် အရာရောက်လှပါပေသည်။

ဦးဇနကာဘိဝံသ

## ဇာတိဌာနေ သရိုင်မြေသို့ နောက်တစ်ခေါက်

### စေတီနှင့်သိမ်ကြီး ပြီးစီးအောင်မြင်၍

၁၃၃၆ ခုနှစ် တန်ဆောင်မုန်းလပြည့်ကျော် ၁ ရက်နေ့က ဖြစ်၏၊ မွေးဇာတိ သရိုင်မြေသို့ ဒုတိယအကြိမ် ကြွခြင်း ဖြစ်သည်၊ ယမန်နှစ်က ပထမအခေါက် သံဃာ ၁၀၀ နှင့် ကြွစဉ်တုန်းက စေတီလှဘုရားဝိုင်းကြီးထဲမှာ စေတီကြီးတစ်ဆူနှင့် ရဟန္တာသိမ် အဆောက်အအုံတစ်ခု ယိုယွင်းနေသည်ကို တွေ့ခဲ့ရ၏၊ ဆရာတော်က "မိမိတို့ နီးစပ်ရာ ဒါယကာ ဒါယိကာမများ စုပေါင်း၍ ပြုပြင်ကြရလျှင် ကောင်းမှာပဲ"ဟု ရည်ရွယ်သည်ကို ဒကာထိန်ဝင်းသိ၍ "တပည့်တော်တို့ မောင်နှမက စတင်ပြီး မ, တည်ပါမည်ဘုရား"ဟု လျှောက်ထားခဲ့၏၊ ထိုသို့လျှောက်ထားသည့်အတိုင်း ဒကာထိန်ဝင်းနှင့်ညီမဒေါ်လှသွင်တို့က နှစ်သောင်း, မဟာဂန္ဓာရုံကျောင်းတိုက် မိုးကုတ်သိမ်ဒကာ ဦးညီညီ+ဒေါ်လှမေတို့က တစ်သောင်း, ဦးမောင်ကြီးနဝကမ္မမှ ငါးထောင်, ဒုဗိုလ်မှူးကြီးဟောင်း (ရွှေတိဂုံဂေါပကလူကြီး) ဦးအောင်သိမ်း+ဒေါ်ညွန့်မေတို့က သုံးထောင်, ရန်ကုန်မဟာဗောဓိကျောင်းဒကာ (ဆင်ပျံ) ဦးကိုကိုလေးနှင့် အစ်မဒေါ်မြတို့က တစ်ထောင်, အခြား ဒါယကာဒါယိကာမတို့က တတ်အားသမျှ ပါဝင်ကြသော အလှူငွေများဖြင့် စုပေါင်း၍ ပြုပြင်ခဲ့ကြရာ တစ်နှစ်အတွင်းမှာပင် အားလုံး ပြီးစီးနေခဲ့ပြီ ဖြစ်သည်။

### သံသရာခရီးကိုလည်း ကွက်တိ အံကိုက်ပြင်

ထိုကဲ့သို့ ပြုပြင်မှုအရပ်ရပ်ကို ရေစက်ချပွဲနှင့် ပြုပြင်ပြီး စေတီတော်ကြီးကို ကြည်ညိုပူဇော်ကြပါရန်အတွက် ပင့်လျှောက်ချက်အရ ဒုတိယအကြိမ်ကြွရခြင်း ဖြစ်ပေသည်၊ ဤဒုတိယအကြိမ်၌ ရပ်ရွာနယ်ပယ် ဆရာတော် သံဃာတော်များ ပါဝင်သောအစည်းအဝေး၏ ဆုံးဖြတ်ချက်အရ (မနှစ်က သံဃာ ၁၀၀ တည်းသာပါသဖြင့် ပရိတ်တရား နာလိုကြသော ရွာများသို့ ခွဲဝေပေးသောအခါ မလုံမလောက်ဖြစ်ရပါသည်။) ထို့ကြောင့် သံဃာတော်များများနှင့် ကြွရောက်ချီးမြှောက်တော်မူပါရန် တောင်းပန်ကြ၏။

သို့ဖြစ်၍ ဒုတိယအခေါက်၌ သံဃာ ၁၅၀ ဖြင့် ကြွတော်မူသည်၊ ကြွရာတွင်လည်း မီးရထားဖြင့် ကြွသည်၊ သီးသန့်တွဲလုံး ယူထားသော ရထားသုံးတွဲဖြင့် အမရပူရမှနေ၍ လိုက်ကြသည်၊ ထိုနေ့ နံနက်က လိုက်ပါကြမည့် သံဃာ ၁၅၀ သည် သပိတ်ကိုယ်စီ ယပ်ကိုယ်စီဖြင့် အသင့်ဖြစ်၍ နေကြချေပြီ။

နံနက်အရုဏ်ဆွမ်းကို အမရပူရ ပိန်းတန်းဘူတာအနီးက ဒကာငြိမ်၏ အိမ်တွင် ဘုဉ်းပေးဖို့ရန် စီစဉ်ထားကြ၏၊ မန္တလေးမှ ထွက်လာမည့် ရထားအချိန်, အမရပူရသို့ ရောက်မည့်အချိန်တို့ကို သိထားသဖြင့် သံဃာများ ဆွမ်းဘုဉ်းပေးအပြီး မေတ္တာသုတ်ရွတ်အပြီးနှင့် ရထားရောက်လာချိန် အံကိုက်အောင်စီစဉ်ရာ အားလုံးပင် ကွက်တိ အံကိုက် ဖြစ်ခဲ့လေသည်၊ ဆရာတော်က သံသရာခရီးကိုလည်း ဤသို့ပင်လျှင် မငြိုငြင်ရအောင် ကွက်တိ အံကိုက် ပြင်ဆင်ထားကြစေချင်၏၊ ခဏခဏ သတိပေးလေ့ရှိတော်မူသည်။

## လက်ဆောင်ကောင်း ပါးတဲ့သူလို ပြုံးရှို

ဤဒုတိယအခေါက်ခရီးတွင် ရန်ကုန်မှ ကုသိုလ်ရှင်များလည်း ကြည်ညိုနိုင်ရန် တစ်ပါတည်း လိုက်ပါလာကြ၏၊ ယင်းတို့မှာ ဗိုလ်မှူးအောင်သိမ်း, ဦးထိန်ဝင်းတို့ အပြင် ညီမ ဒေါ်လှသွင်တို့နှင့်တကွ ရန်ကုန်မှ ဒေါ်စိန်မြင့်, ဒေါ်ညွန့်တင်, ကိုတင်ရွှေ, ဦးစောလွင်+ဒေါ်သန်းမြင့်တို့ ပါကြ၏၊ ထို့ပြင် ဦးထိန်ဝင်း၏ အဒေါ်(ကျုံမငေးမှ) ဒေါ်ကျင်အိန် သမီးမနီ, (ပြင်ရွာမှ) ဦးမောင်ကောက် သမီး မကျင်အေး, မောင်ကျော်လှိုင်+မရီတို့လည်း ပါကြသည်၊ ထိုမှတစ်ပါး ဆရာတော်ဘုရား၏ အလုပ်များကို လေးစားကြည်ညိုလေ့ရှိသော စာရေးဆရာ (ဓမ္မယောသက) ဦးမောင်မောင်နှင့် မြို့နယ်ကျန်းမာရေးမှူး ဦးပေါ်ဇံတို့လည်း အားတက်သရော လိုက်ပါလာကြ၏။

ရထားကြီးသည် အမရပူရမှ တငြိမ့်ငြိမ့် ထွက်ခွာပါလေပြီ၊ ယနေ့ ရထားကြီးသည် သူတော်စင်သံဃာတော် အရှင်သူမြတ်တို့ကို အစုလိုက် အပြုံလိုက် သယ်ပိုးလာရ၍လော မပြောတတ်, ခါတိုင်းနေ့ထက် ပို၍သွက်လက်နေသလိုထင်ရ၏၊ ကျေနပ်စွာကုန်း၍ ရုန်းနေသလိုလည်း ထင်ရသည်၊ ရထားကြီးသည် ဝက်လက်မြို့နယ်က ဒါယကာ ဒါယိကာမများအတွက် လက်ဆောင်ကောင်းပါတဲ့သူလို ပြုံးချို့ရွှင်ပျ ဂုဏ်ယူဝင့်ကြွားသလိုလည်း ထင်စားရတော့၏။

## နိဗ္ဗာန်အထိ ခေါ်သွားရမှာ

တငြိမ့်ငြိမ့်နှင့် ပိန်းတန်းဘူတာမှ နေ၍ ထွက်ခွာလာခဲ့ရာ ရတနာ့ဂူ, စစ်ကိုင်း, ရွာထောင်, ကုန်းကြီးစခန်း, ခက်ခ, ကျောက်ပန်း, ပဒူ, ပေါက်ကန်ဘူတာတို့ကိုပင် ကျော်ဖြတ်ခဲ့လေပြီ၊ ဘူတာတိုင်းတွင် တစ်ခုပြီး တစ်ခု ခေတ္တစီ ရပ်နား၍ အချို့ကုန်နှင့်လူတို့ကို ချထားခဲ့၏၊ အချို့ကုန်နှင့် လူတို့ကိုမူ ထပ်မံခေါ်ဆောင်၍ တင်လာခဲ့ပြန်သည်၊ ရထားကြီးကား သူ့တာဝန်သူ ကျေပွန်ပါ၏။

ရထားကြီးသည် အညာသားပီပီ အညာဟန်, အညာသိဖြင့် ဘူတာတစ်ခုသို့ ဝင်ခါနီးတိုင်း "လာပြီဗျို့"ဟူ၍လည်းကောင်း, ဘူတာတစ်ခုမှ ပြန်၍ ထွက်ခွာတိုင်း "သွားဦးမယ်ဗျို့"ဟူ၍လည်းကောင်း နှုတ်ဆက်သလိုထင်ရလောက်အောင် ဥဩသံပေး၍ပေး၍ သွားပါသည်။

ထိုနေ့ကား "ဈေးနေ့"ဖြစ်လေသလော မပြောတတ်, ရထားဆင်း ရထားတက် ပို၍ များနေသည်၊ တွဲတိုင်းလိုပင် ပြည့်နေ၏၊ ထို့ကြောင့် နောက်ဘူတာများတွင် အမျိုးသမီးများတစ်အုပ်က ဆိုက်လာသောရထားပေါ်သို့ တောင်းပလုံး, အထုပ်အပိုး ပခုံးထမ်းခေါင်းရွက်တို့ဖြင့် တိုး၍ တက်ကြတော့၏၊ သံဃာတော်များတွဲကိုပါ ချမ်းသာမပေးကြတော့။

"ဟဲ့-ကောင်မ, လုပ်ပါဦးဟဲ့, ငါ့ကိုလည်း ဆွဲတင်ပါဦး, ညည်းက ဒီလိုချည်းပဲ၊ တစ်ကိုယ်ကောင်းတယ်ဆန်တယ်" စသည်ဖြင့် ဆူဆူညံညံ ဟစ်အော်ပြောဆိုရင်း တွဲပေါ်သို့ စုပြုံ တက်လာကြသည်၊ ဗိုလ်မှူးအောင်သိမ်းနှင့် ဦးစောလွင်တို့က သံဃာများသီးသန့်တွဲဖြစ်၍ မတက်ဖို့ရန် ထောင်းပန်ကြ၏၊ ထိုအခါ ဆရာတော်က...

"နေပါစေ, နေပစေ, တက်ပါစေ၊ ဒီ ဒါယကာ ဒါယိကာမတွေကို ဘုန်းကြီးက နိဗ္ဗာန်အထိ ခေါ်သွားရမှာ, တက်ကြ တက်ကြ"

ဟူ၍ပင် ပြုံးရွှင်စွာ အမိန့်ရှိလေသည်၊ ထို့နောက် သူတို့ကို ကြည့်၍ ခွင့်ပြုသော အပြုံးဖြင့် ဆရာတော်က ပြုံးပြီး နေသည်၊ သူတို့သည်လည်း သံဃာတော်များရယ် ဘာရယ် သိပ်ပြီး အမှုထားနေကြဟန်မတူပေ၊ သူတို့ အချင်းချင်း "ဟဲ့ ကောင်မရဲ့, ညည်းယူလာတဲ့ ကုန်ပစ္စည်းတွေ ဟန်ရဲ့လားအေ့" "ဟန်ပါတယ်တော်, တစ်မျိုး တစ်မျိုးကိုပဲ သုံးကျပ်တစ်မတ်မြတ်နေ, တော်ရောပ" ဟူ၍ အတွဲ့အလှယ် ရောင်းဝယ် ဆွေးနွေးနေကြတော့သည်။

## ကြက်သီးဖြန်းဖြန်း ထလောက်အောင်

ရထားကြီးသည် နံနက် ၉ နာရီခွဲတွင် ဝက်လက်ဘူတာသို့ ဆိုက်လေ၏၊ ဘူတာတွင် ဆိုင်ရာဒါယကာဒါယိကာမတို့က စည်ကားသိုက်မြိုက်စွာ ကြိုဆိုကြသည်၊ ရထားပေါ်က ဆင်းလျှင် သံဃာတော်များက သင်္ကန်းရုံလျက် သပိတ်ကိုယ်စီလွယ်လျက်, ယပ်ကိုယ်စီကိုင်လျက် စီတန်းပြီးလျှင်ဘုရားကြီးကျောင်းတိုက်သို့ ကြွကြ၏၊ သံဃာတော် ၁၅၀ မှာ နီညို ရောင်သင်္ကန်း အသွေးတူ အမွေးတူ အရောင်တူ ဖြစ်၍ တစ်ကြောင်း, အသက်အရွယ်အားဖြင့်လည်း သိပ်ပြီး မကွာခြားလှသည်ကတစ်ကြောင်း, သပိတ်ကိုယ်စီ ယပ်ကိုယ်စီဖြင့် စီစီညီညီ ကြွနေသည်ကတစ်ကြောင်း, ငြိမ်သက်တည်ကြည်သော ဣန္ဒြေရှိသည်တို့က တစ်ကြောင်းတို့ကြောင့် မြင်ရသူအပေါင်းမှာ ကြက်သီးဖြန်းဖြန်း ထရလောက်အောင် သဒ္ဓါတရား ဖြစ်ကြရပါသည်၊ ထို့ကြောင့် လမ်းဘေးဝဲယာတို့က ဒါယကာဒါယိကာမတို့သည် စုပြုံဝိုင်းအုံ ရောက်လာကြ၍ သံဃာတော်များကြွနေသော လမ်းမမြေကြီးပေါ် တစ်လျှောက်တွင် မျက်နှာသုတ်ပဝါများ ခင်းပေးကြ၏၊ လက်ကိုင်ပဝါများ ခင်းပေးကြ၏၊ ပုဆိုး အင်္ကျီ အဝတ်အထည်သစ်များကိုပင် ခင်းပေးကြ၏၊ သူ့ထက်ငါ ဆက်ကာ ဆက်ကာ မဆုံးနိုင်အောင် ခင်းပေးကြ၏၊ အချို့က လမ်းမပေါ်တွင် ပန်းမျိုးစုံဖြန့်ကြဲ၍ ပန်းမိုးဖွဲကလေးများ ရွာပေး ထားသေး၏၊ မကြုံစဖူး ထူးကဲလှသဖြင့် ရင်ထဲက လှပ်လှပ် လှပ်လှပ် ဖြစ်ရလောက်အောင် လှုပ်ရှား ကြည်ညိုကြရသည်။

အချို့ကမူ ကွယ်လွန်သူ မိဘ ဘိုးဘွားတို့ကို သွား၍ သတိရကြ၏၊ "မြင်လိုက်စေချင်စမ်းပါဘိ"ဟု တောင့်တကြသည်၊ မျက်ရည်များလည်း ဝိုင်းနေကြ၏၊ ဤနေရာတွင် အဆီးအတားဖြစ်သောတာရိုးကြီး ကျိုး၍ သဒ္ဓါမိုးရေတွေ ဒလဟော ဖိတ်လျှံစီးဆင်းကုန်သလို ဖြစ်တော့သည်၊ ကြွလေရာ လမ်းဘေးဝဲယာတို့ကို အနည်းငယ် စောင်းငဲ့ကြည့်မည်ဆိုလျှင် လက်အုပ်ဖူးငုံ ကြာပဒုံကလေးတို့ဖြင့် အစုံအစုံ ရှိညွှတ်နေကြသည်ကိုလည်း တွေ့ရမည်ဖြစ်သည်။

ဆရာတော်ဘုရားအတွက်ကိုမူ ကားဖြင့် ကြွဖို့ သီးသန့်ကားတစ်စီးကို ပန်းများဝေဆာစွာ သီကုံးတန်ဆာဆင်လျက် သာသနာ့အလံများထိုးလျက် အသင့်စောင့်နေသည်၊ သို့သော် ဆရာတော်ကား ထိုကဲ့သို့ ခမ်းခမ်းနားနား အထင်ကြီးဖွယ်ဖြစ်အောင် စီမံလေ့ မကြိုက်လေ ဖြစ်သည်၊ ထို့ကြောင့် ကားကို မစီးဘဲ သံဃာတော် များ၏ နောက်က ခြေလျင် ကြွ၍ လိုက်လာလေသည်။

## သဒ္ဓါလွန်တော့ ဆွန့်တတ်သည်

ထိုအထဲတွင် ရှေ့ဆုံးမှ အသံချဲ့စက်ဖြင့် ကြေညာသူက "ယခုအချိန်မှစ၍ သံဃာစစ် သံဃာမှန်များ ကြွလာပါပြီခင်ဗျား"ဟူ၍လည်းကောင်း, "အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်မှ အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်ဇနကာဘိဝံသသည် နောက်ပါ သံဃာ ၁၅၀ ဖြင့် သာသနာပြု ကြွလာပါပြီခင်ဗျား"ဟူ၍ လည်းကောင်း အော်လေ၏၊ ထိုအသံကို သံဃာများ၏ နောက်ဆုံးက လိုက်လာသော ဆရာတော်က ရုတ်တရက်ကြား၍ ထိုသူကို ချက်ချင်း အခေါ်ခိုင်းတော့သည်၊ ရောက်လာလျှင် ဆရာတော်က ရှင်းပြ၍ ထိုသို့ မအော်ရန် တားမြစ်တော့၏၊ "သံဃာစစ် သံဃာမှန်"ဟူ၍လည်းကောင်း,"သာသနာပြုကြွလာပါပြီ"ဟူ၍လည်းကောင်း မသုံးပါနှင့်ဟု တားမြစ်တော့သည်။ ဟုတ်ပါသည်၊ "သံဃာစစ် သံဃာမှန်" ဟုဆိုသဖြင့် လက်ရှိနယ်ပယ်က သံဃာတော်တွေက မစစ် မမှန်သလို ဖြစ်သွားရ၏၊ "သာသနာပြု ကြွလာပါပြီ" ဆိုသဖြင့် လက်ရှိနယ်ပယ်မှာ သာသနာကွယ် နေပြီလို ဖြစ်နေ၏၊ ဤအသုံးအနှုန်းများသည် နယ်ပယ်ဒေသက လက်မခံနိုင်သော အသုံးများဖြစ်၏၊ နှိုးဆော်သူ ဒါယကာများက သတိထားဖို့ ဖြစ်သည်၊ ဒါယကာများ၏ သဒ္ဓါလွန်ကဲမှုကြောင့် ဒုက္ခရောက်သွားနိုင်၏၊ "ပညာလွန်လျှင် ကွန့်တတ်သည်, သဒ္ဓါလွန်လျှင် ဆွန့်တတ်သည်"ဟု အဆိုရှိသည် မဟုတ်ပါလော၊ ဤကဲ့သို့သော အပြုအမူများကြောင့် အချို့နေရာများတွင် ဆရာဘုန်းကြီး ဒုက္ခရောက်သွားကြသည်များ ရှိကြ၏၊ အလွန်သတိကြီးစွာ ထားဖို့လိုသည်၊ အမှန်စင်စစ်ကား ဤအမရပူရ မဟာဂန္ဓာရုံသံဃာများ ကြွလာဖို့ကိုပင် ဤနယ်ပယ်သံဃာတော်များက လိုလိုလားလား ဖြစ်ခဲ့ကြပါ၏၊ ပင့်ဆောင်ဖို့စည်းဝေးရာတွင်လည်းကောင်း, ကြိုဆိုကြရာတွင်လည်းကောင်း ရှေ့တန်းမှ ပါဝင်တော်မူခဲ့ကြ၏၊ မဟာဂန္ဓာရုံဆရာတော်နှင့် သံဃာတော်များကလည်း မေတ္တာတို ရှေ့ထား၍ (နွားနို့နှင့် ရေမကွဲပြားသလို) ဤနယ်ပယ်သံဃာတော်များနှင့် တစ်သားတည်း ဖြစ်လို၍ ကြွလာခြင်း မဟုတ်ပါလော။

## တောမြိုင်လမ်းမှ သံဃာတန်းကြီး

နံနက် ၁၀ နာရီခွဲအချိန်တွင် ဘုရားကြီးကျောင်းတိုက်၌ နေ့ဆွမ်းဘုဉ်းပေးကြရ၏၊ ဆွမ်းဘုဉ်းပေးပြီး၍ ခေတ္တအနားယူကြပြီးလျှင် နေ့ ၁ နာရီခွဲတွင် ဝက်လက်မှ မြင်တော်သို့ ခရီးဆက်ကြပြန်သည်၊ သံဃာတော် ၁၅၀ တို့က သက်န်းရုံ၍ သပိတ်ကိုယ်စီ ယပ်ကိုယ်စီ ဖြင့် ရှေ့နောက်စီတန်း၍ (မနှစ်ကလိုပင်) တောလမ်းမှ ခရီးကြွတော်မူနေကြသည်၊ သံဃာတော်များနှင့် တောအုပ်မြိုင်ရပ်တို့ဆိုသည်မှာ အမြဲထာဝရ ပဏာရသော သဘာဝပင်ဖြစ်၏၊ ဘုရားရှင်ကိုယ်တော်မြတ်ကလည်း တောရပ် တောဒေသကို (ရဟန်းတို့အား အပ်စပ်သော) ရဟန်းတို့နှင့် လိုက်ဖက်သောဒေသအဖြစ် ချီးမွမ်းတော်မူလေ့ရှိ၏။

ကိုယ်တော်မြတ်ကြီးကိုယ်တိုင်ပင် တောမှာဖွား၍ တောမှာ တရားကျင့်ပြီး တောမှာပင် သဗ္ဗညုတဉာဏ်ကြီးရ၍ ဘုရားဖြစ်တော်မူခဲ့၏၊ ထို့နောက် တောမှာပင် အနေများတော်မူ၍ နောက်ဆုံးတွင် တောမှာပင် ပရိနိဗ္ဗာန်ပြုတော်မူခဲ့သော "တောပျော်ကိုယ်တော်ကြီး"မဟုတ်ပါလော၊ ယခုလည်း သံဃာတော်များက တောရိပ်တောတန်းတို့ကို နောက်ခံထား၍ တောမြိုင်လမ်းကြားမှ တငြိမ့်ငြိမ့် ခရီးကြွနေကြသည်မှာ အံ့အားသင့်မှု (အစ္ဆရိယ, အဗ္ဘုတ)ဖြစ်ကြရတော့၏၊ ဝန်းကျင်ပတ်ချာ ဖူးမြင်ရသူအပေါင်းက ရင်သပ်ရှုမော ဖြစ်ကြရသည်၊ ရင်ဆိုင်တွေ့ရသူတို့ကမူ လမ်းဖယ်ပေးကြ၍ မြေပြင်ပေါ် ထိုင်ချကာ လက်အုပ်ကလေးများချီလျက် ဦးညွှတ်၍နေကြတော့သည်၊ ဆရာတော်အတွက် တောလမ်းတွင် မပင်ပန်းရအောင် ကားတစ်စီး စီစဉ်ပေးထားသော်လည်း မစီးပေ၊ သံဃာတော်များကဲ့သို့ပင် မြေပြင်မှ ခြေလျင်ကြွကာ နောက်မှ ဖြည်းဖြည်း လိုက်ပါလာသည်၊ (ရန်ကုန်မှ ဒါယကာ ဒါယိကာမ ကုသိုလ်ရှင် တစ်စုတို့ကား လှည်းသုံးစီးငှား၍ သွားနှင့်ကြ၏၊) ဆရာတော်မှာ ခန္ဓာကိုယ်တော်က ဝ၍ ခရီးသွားနေကျလည်းမဟုတ်သဖြင့် အတော်ပင်ပန်းတော်မူပေလိမ့်မည်၊ အများကဲ့သို့ပင် သက်န်းကြီးကို ရုံ၍, သပိတ်ကြီးကို လွယ်၍ ထန်းရွက်ယပ်ကြီးကို လက်စွဲကာ တောအုပ်မြိုင်ထဲ၌ တငြိမ့်ငြိမ့်ကြွတော်မူလာသည်။

## ထန်းသီးကြွေခိုက် ကျီးနားလိုက်

တစ်မိုင်ခန့် သွားမိကြသောအခါ မြင်တော်ရွာသို့ ရောက်ကြ၏၊ မနှစ်ကလိုပင် အင်းစောင်းတွင် မဏ္ဍပ်ကြီးများ ထိုးထားကြသည်၊ ကြိုဆိုသော ဒါယကာ ဒါယိကာမတို့မှာ မနှစ်ကထက်ပင် များသေး၏၊ ကမ်းလုံးညွှတ်မျှ ဖြစ်တော့သည်၊ ဝန်းကျင်ရပ်ရွာတို့ကပါ တကူးတက လာ၍ စောင့်ကြိုနေကြသည်၊ သံဃာတော်များ ရောက်လာကြလျှင် သူတို့၏ လက်အုပ်ဖူးငုံကလေးများပေါ်တွင် အပြုံးကလေးများဆင့်၍ ထားကြသေး၏၊ ခါးကိုလည်း (ပွင့်နေသော ကြာပင်ကြာရိုးများပမာ) ညွှတ်ကိုင်း၍ ထားကြသည်၊ ပြီးလျှင် သံဃာတော် အရှင်မြတ်တို့အား မဏ္ဍပ်တွင်း၌ နေရာပေး၍ အဖျော်ယမကာများ ကပ်လှူကြ၏၊ ဖျော်ရည်ဘုဉ်းပေး၍ ပရိတ်ရွတ်အပြီးတွင် ဆရာတော်လည်း နောက်ပိုင်းမှ ရောက်လာတော်မူသည်၊ ယမန်နှစ်ကပင် ဖူး၍ မဝလိုက်သော ပရိသတ်ကြီးသည်လည်း ဝိုင်းအုံစုပြုလာ၍ ဆရာတော် အရှင်ဇနကာဘိဝံသကို တိုးဝှေ့၍ ဖူးမြော်ကြသည်၊ ဝမ်းသာအားရ နှုတ်ဆက်ကြ လျှောက်ထားကြ၏၊ သူတို့ ဝမ်းထဲတွင် ပြောချင်လျှောက်ချင်လာသော အချက်တွေများနေဟန် တူသည်၊ ထိုအထဲတွင် ဒကာကြီးတစ်ဦးက...

"တပည့်တော်တို့နယ်မှာ ဟိုနှစ်တွေကဆိုရင် မိုးခေါင်တယ်ဘုရား, မနှစ်တုန်းကတော့ သီလရှိတဲ့ ဆရာတော်တို့ ကြွလာလို့ အဲဒီနောက် မိုးတွေ လေတွေ ကောင်းတယ်၊ ဆန်စပါးတွေ ရကြတယ်ဘုရား၊ စောစောပိုင်း ရက်တွေကလည်း ရွာနေတာပဲ၊ အခု ဆရာတော်တို့ ကြွလာခိုက်မို့ မိုးပြတ်ပေးတာပဲ"ဟူ၍ လျှောက်ထားလေရာ ဆရာတော်က...

"ဒီလို မပြောကြပါနဲ့, တော်ကြာ မိုးမရွာလို့ စပါးမရရင် ဆရာတော် သီလပျက်သွားပြီလို့ ပြောကြလိမ့်မယ်၊ ဒါ ဆရာတော်နဲ့ မဆိုင်ပါဘူး၊ "ထန်းသီးကြွေခိုက် ကျီးနားလိုက်"ဆိုသလို ဖြစ်ရတာပါ"ဟု မိန့်မြွက်တားမြစ်ရလေသည်၊ ထိုသို့ တားမြစ်သည့်တိုင်အောင် ထိုဒါယကာများ ၏ စိတ်ထဲတွင်ကား "ဆရာတော်မှ ဆရာတော်ကြောင့်"ဟု စွဲထင်နေကြဟန် တူပေ၏၊ ဤမျှလောက်ပင် ဆရာတော်ကို လေးစားကြ ကြည်ညိုကြလေသည်။

## ဆိုင်ရာအကြောင်းသာ အရင်းခံ

ဆရာတော်ကား ဖြောင့်စင်းလှ၏၊ ဆရာတော့် အပေါ် ဒါယကာ ဒါယိကာမများက ပို၍ အထင်ကြီးနေကြသည်ကိုပင် ဆရာတော်က မြဲ၍ မနေပေ၊ မဟုတ် မဟုတ်တဲ့ အကြောင်းကို ချက်ချင်းထုတ်ဖော် မိန့်မြွက်လေသည်၊ "ဆရာတော်နှင့် ဆန်စပါးတွေရတာ မဆိုင်ပါဘူး"တဲ့၊ ဟုတ်ပါသည်, သူ့အကြောင်းနှင့်သူ ရခြင်းသာ ဖြစ်၏၊ တိုင်းပြည်အတွက် လူမျိုးအတွက် ဆိုင်ရာဆိုင်ရာ အကြောင်းတွေကြောင့်သာ အကျိုးဖြစ်နေကြခြင်း ဖြစ်သည်၊ ဥပမာ...

၁။ ဆန်စပါး စားနပ် ရိက္ခာများ ရနေခြင်းသည် လယ်သမားများကြောင့် ဖြစ်၏။

၂။ လူသုံးကုန်ပစ္စည်းများ လုံလောက်အောင် ရနေခြင်းသည် အလုပ်သမားများကြောင့် ဖြစ်၏။

၃။ မိမိတို့တိုင်းပြည် လုံခြုံမှုရနေခြင်းသည် စစ်မှုထမ်းများကြောင့် ဖြစ်၏။

၄။ ကိုယ်ကျင့်သီလပြည့်ဝ၍ အသိဉာဏ်တိုးပွားရခြင်းတို့သည် ပညာသင်ပေးသော ဆရာများနှင့် ရဟန်းသံဃာတော်များကြောင့်သာ ဖြစ်၏။

ဆိုင်ရာဆိုင်ရာအကျိုးတွေရဖို့ရာ ဆိုင်ရာဆိုင်ရာ အကြောင်း ပုဂ္ဂိုလ်တို့သာ အရင်းခံဖြစ်ကြလေသည်၊ အကြောင်းမဲ့ကား ပဟုတ်ချေ။



တောမြိုင်လမ်းကို ဖြတ်ကျော်၍

## ဘူမိနက်သန် မှန်တဲ့မြေတဲ့

တစ်ခါတုန်းက...ဒါယကာမကြီးတစ်ယောက် အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်တွင်းက မြေကြီးအနည်းငယ်ကို တူးဆွ ရက်ယူနေ၏၊ ပြီးလျှင် ဖက်တစ်ခုဖြင့် ထုပ်၍ ယူလာရာ ဆရာတော်နှင့်လမ်းမှာ တွေ့လေ၏၊ ဒါယိကာမကြီးက လျှောက်သည်...

"တပည့်တော်မ ဒီကျောင်းတိုက်ထဲက မြေကြီးနည်းနည်းကို ယူလာခဲ့တယ်ဘုရား၊ ခွင့်ပြုတော်မူပါ"

"ဘာလုပ်ဖို့လဲ ဒကာမကြီး"

"ဒီကျောင်းတိုက်က ကြီးပွားတယ်, တိုးတက်တယ်, ဘူမိနက်သန် မှန်တဲ့ မြေကြီးမို့ ပွားပြီး ယူချင်လို့ပါဘုရား"

"အင်း... ဒကာမကြီးက ဘူမိနက်သန် မှန်နေ, ဘုန်းကြီးတို့ ဆရာ တပည့်တွေမှာဖြင့် ဝိုင်းအုံပြီး ကြိုးစားလိုက်ကြရတာ၊ ကျောင်း ကန် အဆောက်အအုံတွေ ပြုပြင်ရ, ကျောင်းတလင်းသန့်ရှင်းအောင် တံမြက်လှည်းရ ကျင်းရန့် နောက်ဆုံး ဒီမြေကြီးတွေကိုပဲ တူးဟ ဆွဟ ဖို့ဟ ညှိဟနဲ့ လုပ်ထားလို့ ဒီလောက် သာယာနေတာပါ၊ ဘယ်ကလာ ဘူမိနက်သန် ဟုတ်ရမှာလဲ"ဟု မိန့်တော်မူရှုးလေသည်၊ ဘုရားလက်ထက်တော်တုန်းကလည်း "ဇေတဝန်ကျောင်းတိုက်ကြီး လာဘ်လာဘ ပေါများ၍ ကြီးပွားတိုးတက်တာ ဘူမိနက်သန် မှန်လို့ နေမှာပဲ"ဟု အတွေးချော်၍ တိတ္ထိတွေတစ်စု ဇေတဝန်ကျောင်းတိုက်အနီးလာကပ်ပြီး ကျောင်းတိုက်တစ်ခု တည်ဖို့လုံးပန်းကြဖူး၏။

ဤသို့လျှင် အကြောင်းရင်းကို မစဉ်းစားနိုင်သူများက အထင်မှားတတ်ကြသည်။

အမှန်မှာ သီလ သမာဓိ ရှိမှုနှင့် ကြိုးစားမှု၏ အသီးအပွင့်များ ပေါ်ပေါက်လာရသည်ကို သတိမမူမိကြ၍သာ ဖြစ်သည်။

# တစ်နေ့တွင် သိပ္ပံပညာက ထောက်ခံလာလိမ့်မယ်

## မြင်တော်ရှာ၌ ဟောသောတရား

မြင်တော်ကမ်းခြေတွင် အာလာပ သလ္လာပ ပြောဆိုနှုတ်ဆက်ကြပြီးနောက် အမောပြေသောအခါ ဆရာတော်အား ဩဝါဒ အနည်းငယ်ပေးပါရန် လျှောက်ထားကြ၍၊ ထို့ကြောင့် ဆရာတော်က အောက်ပါအတိုင်း ဟောပြတော်မူသည်။

"ဘဝဟာ ကျောက်တိုင် ကျောက်ငုပ်ကြီးလို ရပ်တည်နေတာ မဟုတ်ဘူး၊ ယနေ့ ဘုန်းကြီးတို့ ခရီးသွားနေသလို တရွေ့ရွေ့ သွားနေတယ်၊ ရွေ့ရှားနေတယ်၊ အဲလို ရွေ့ရှား သွားနေတာကို ဘယ်ကလာပြီး ဘယ်ကိုသွားမယ်ဆိုတာ ကိုယ့်ဘာသာကိုယ် ခန့်မှန်းနိုင်ဖို့ လိုတယ်၊ ခန့်မှန်းနိုင်အောင် ကြိုးစားကြရမယ်၊ ဘုန်းကြီးတို့ ယခုလို ခရီးထွက်လာရတာ အင်မတန် ပင်ပန်းနွမ်းနယ်လှပါတယ်၊ ဘဝခရီးဟာလဲ ပင်ပန်းနွမ်းနယ်တာပဲ၊ ဘဝခရီး သွားတဲ့နေရာမှာ ကောင်းတဲ့ သုဂတိဘဝတွေကို သွားမိအောင် (သွားနိုင်အောင်) ကြိုးစားကြရမယ်။

"ကောင်းတဲ့ သုဂတိဘဝဆိုလို့ အခု ဘုန်းကြီးသတင်းတစ်ခု ကြားနေတယ်၊ အခုခေတ်က သိပ္ပံခေတ်၊ လက်တွေ့ကျကျမှ ယုံတယ်၊ ဒီခေတ်ထဲမှာ နတ်တွေ ဗြဟ္မာတွေ ငရဲတွေ အယုံအကြည် မရှိဘူးဆိုတဲ့သူတွေ အတော် ပေါများနေကြတယ်။

အကယ်၍ ရှိရင် အခု လကမ္ဘာကို လွှတ်နေတဲ့ အာကာသယာဉ်တွေနဲ့ တိုက်မိမှာပေါ့တဲ့၊ အဲလို ပြောနေကြပြီ။

## မမြင်ဖူးတာ မြင်ရ မကြားဖူးတာ ကြားရ

မြေပြင်မှာ အဲလို ပြောနေကြတုန်း အာကာသ လကမ္ဘာကို အလွှတ်ခံရတဲ့သူတွေက တစ်မျိုး ပြောနေကြပြန်ပြီ၊ ဒီကမ္ဘာကနေပြီး လေထုနဲ့ ကင်းကွာတဲ့နေရာ ရောက်သွားတော့ မကြားဖူးတဲ့ အသံဗလံတွေ ကြားလာရ, မမြင်ဖူးတဲ့ အရာဝတ္ထုတွေကို မြင်လာရသတဲ့၊ ဘာသံတွေ ဘယ်လိုအရာတွေ ဆိုတာကိုတော့ လေ့လာပေမယ့် သူတို့လဲ အတိအကျ မသိခဲ့ရဘူးတဲ့။

သူတို့ မြင်ခဲ့ရ ကြားခဲ့ရသမျှတွေကို မြေပြင်ပြန်ရောက်လို့ ပြောပြတဲ့အခါ သိပ္ပံပညာရှင် ပါမောက္ခကြီးတွေက "ဒီလူတွေ လေထုနဲ့ ကင်းကွာသွားရလို့ ဦးနှောက်ကြောတွေ ပြတ်ကုန်ပြီး ရူးသွားကြပြီ"လို့ စွပ်စွဲကြသတဲ့၊ ပြီးတော့ ခုံရုံးတင် စစ်ဆေးကြသတဲ့၊ အဲလို စစ်ဆေးတဲ့အခါ (ကောင်းကင်မှာ လေထုနဲ့ ကင်းကွာတဲ့ နေရာမျိုးလို) မြေပြင်မှာလဲ လေလုံခန်း တစ်ခု ပြုလုပ်ပါသတဲ့၊ ပြီးတော့ ကောင်းကင်မှာ သူတို့ ကြားခဲ့ရတယ်ဆိုတဲ့ အသံဗလံမျိုးတွေ အတုလုပ်ပြီး နားထောင်ခိုင်းသတဲ့၊ ဒီအခါမှာ ဘာသံမျှ မကြားရ, ဘာကိုမျှလဲ မမြင်ရ ဖြစ်ကြရသတဲ့။

အဲဒီတော့မှ သိပ္ပံပညာရှင် ပါမောက္ခကြီးတွေက "ဒီလိုဆိုရင် သူတို့ မြင်ခဲ့ ကြားခဲ့တာတွေ အမှန်ဖြစ်ပေမယ်"လို့ ဆုံးဖြတ်ကြသတဲ့။

## ဗုဒ္ဓဘာသာချည်း ဖြစ်လာမည့်အချိန်

ဒီနေရာမှာ ဘုန်းကြီးက ဘာပြောချင်သလဲဆိုရင် သူတို့ တွေ့ခဲ့ရ ကြားခဲ့ရတာတွေဟာ နတ်တွေ ဖြစ်ချင် ဖြစ်မယ်၊ ဒီတော့ "နတ်ပြည် မရှိဘူး"ဆိုတဲ့ သူတွေ နောက်တော့ နတ်တွေကို ယုံလာကြမယ်, လက်တွေ့ဆိုတော့ ယုံလာကြမှာပေါ့၊ "ငရဲမရှိဘူး" ဆိုတဲ့ သူတွေလဲ ပျောက်ကုန်တော့မယ်၊ နောက်ပိုင်းမှာ သိပ္ပံပညာရှင်တွေက နတ်ပြည်တို့ ငရဲတို့ကို အာရုံစူးစိုက်ပြီး လေ့လာစိတ်ဝင်စားလာကြလိမ့်မယ်၊ အဲဒီအခါမှာ "နတ်ပြည်ရှိတယ်, ဗြဟ္မာ့ပြည်ရှိတယ်, ငရဲရှိတယ်, တိရစ္ဆာန်ရှိတယ်"လို့ အခိုင်အမာ ပြောရဲတဲ့ ဗုဒ္ဓဘာသာကိုပဲ စိတ်ဝင်စားလာကြလိမ့်မယ်၊ နောက်တော့ ဗုဒ္ဓဘာသာတွေချည်း ဖြစ်လာကြလိမ့်မယ်"လို့ ဘုန်းကြီးက ယုံကြည်ထားတယ်၊ အခုလဲပဲ နိုင်ငံခြားသားတွေက ဘုန်းကြီးဆီကို လာလာပြီး မေးနေကြပြီ၊ လေ့လာနေကြပြီ၊ နောင်ကိုလဲ လေ့လာချင်လို့ လာကြတဲ့အခါမှာ ဘုန်းကြီးတို့ဘက်က အသင့်ပြင်ဆင်

ထားပြီး ဖြစ်နေကြရမယ်၊ ကြိုးစားထားကြရမယ်၊ အခု ဒီမလာခင် ကျောင်းတိုက်ထဲမှာလဲ အစမ်း သဘောမျိုးနဲ့ ပြုပြင်နေပြီ၊ ဒီက ပြန်ရောက်ရင်လဲ နည်းအမျိုးမျိုးနဲ့ ပြုပြင်ရမှာပဲ၊ ကျန်းမာရေးကောင်း အောင် ဂရုစိုက်ကြ။

ဘုန်းကြီးတို့ နိုင်ငံမှာ ဘာသာ ရေးကိစ္စတွေမယ် ငွေကုန်တွေ များလွန်းတယ်၊ ဘုရားပွဲတွေ, သာရေးဗြု အလှူပွဲတွေ, အသုဘကိစ္စတွေ, ဘုန်းကြီးပျံ ဈာပန တွေမှာ အပိုကုန်တွေ များလွန်းတယ်၊ သဘာဝကျ အောင် သုံးတတ် စွဲတတ်ကြပါစေ၊ ဒါတွေကိုလဲ ပြုပြင်ကြပါ။

ပြီးတော့ ဒီရွာကနေ မြို့ကို ပညာသင် သွားနေ ကြတဲ့ ကလေးတွေ မြို့က ဝတ်စား ဆင်ယင်မှုတွေကို အတုခိုး မလာကြစေနဲ့၊ ဆိုးသွမ်းတဲ့ အကျင့်ပျက် တွေကိုလဲ ယူမလာကြစေနဲ့၊ မိဘတွေ လူကြီးတွေက ဆုံးမပေးကြ၊ မျက်ခြေပြတ် မခံကြပါနဲ့၊ အချင်းချင်း မေတ္တာနဲ့ နေကြပါ၊ ငါးပါးသီလ လုံခြုံအောင် နေကြ ပါ၊ ကဲ-ဘုန်းကြီးတို့ ရှေ့ကို ခရီးဆက်ကြရဦးမယ်"

## ခရီးလမ်းတစ်လျှောက်နှင့် သရိုင်ဝန်းကျင်အနှံ့ ဗြဟ္မစိုရ်တရားတွေ ပြန့်စေဖို့ ဘေးရန်ခပ်သိမ်း ငြိမ်းစေသော်

မြင်တော်ရွာ ဆိပ်ကမ်းမှ ညနေ ၂ နာရီခန့်တွင် အင်းရေပြင်ကြီးကို လှေအစင်းပေါင်း ၆၀ ကျော်ဖြင့် ဖြတ်ကူးကြသည်၊ ယမ်န်နှစ်က ဖောင်ကြီးပြုလုပ် ထားရာ သံဃာအားဖြင့် မမျှ၍ ဖောင်ပေါ်မှာချည်း အကုန်မပါနိုင်ခဲ့၊ ယခုနှစ်မှာကား လှေများဖြင့်ချည်း ကူးဖို့ စီမံထားကြသည်၊ လှေများပေါ်တွင် သံဃာ တော်များ အားလုံး စုံသောအခါ အသံချဲ့စက်ဖြင့် မေတ္တာပို့ကြ၏။

"ဝန်းကျင်ပတ်ချာ ကျေးရွာများနှင့် ရေသတ္တဝါ များဘေးရန်ခပ်သိမ်း ငြိမ်းပါစေသော်"ဟု သဘော ထားတော်မူကြသည်၊ အမှန်မှာကား မေတ္တာမျှသာ မက ဤခရီးတစ်လျှောက်နှင့် သရိုင်ဝန်းကျင်တစ်ခို တွင် ဗြဟ္မစိုရ်တရားများ ပြန့်ပွား၍ တရားဓမ္မနှင့် ညီစေသော်"ဟုလည်း ရည်ရွယ်တော်မူကြရင်း ဖြစ်၏။

စာချဘုန်းကြီး ဦးကုဏ္ဍလာဘိဝံသ၏ ဦးဆောင် ညွှန်ကြားမှုဖြင့် ၂ မိုင်ခန့် ကျယ်ပြန့်သော ရေပြင် ကျယ်ခရီးတွင် မေတ္တသုတ်, ရတနသုတ်, ဓမ္မစကြာ, အနတ္တလက္ခဏသုတ်, မဟာသမယသုတ်တို့ကို ပါဠိရော အနက်ပါ သံပြိုင် ညီညာ ရွတ်ဆို၍ သွား ကြသည်။

ထိုနေ့ ညနေကား အင်းရေပြင်နှင့် ဝန်းကျင် တစ်ခုလုံး အုတ်အုတ်ကျက်ကျက် မေတ္တာ လှိုင်း ဂယက်တို့ဖြင့် ပဲ့လျက်နေတော့သတည်း။

## ရွာဘုရားလည်း ရွာသားကြည်ညို

ညနေ ၄ နာရီခွဲ အချိန်တွင်ကား အင်းရေပြင် ကြီး၏ အရှေ့ဘက် (သရိုင်ရွာနှင့်နီးသော)ကမ်းသို့ ဆိုက်ကပ်ကြလေ၏၊ ကမ်းပေါ်တွင် ဝန်းကျင်ပတ်ချာ ရွာပေါင်းစုံတို့မှ ဒါယကာ ဒါယိကာမများက ဝမ်းသာ အားရ ကြိုဆိုလျက် နေကြသည်၊ ဆရာတော့်အပေါ် ဒါယကာ ဒါယိကာမများက တန်ဖိုးထားကြခြင်းပင် တည်း၊ "ရွာဘုရား ရွာသား မကြည်ညို"ဟု အဆိုရှိ သော်လည်း ဆရာတော်ကိုကား ကြည်ညိုလေးစား ကြပေသည်တကား။

မဟာဂန္ဓာရုံမှ ပါလာကြသော သံဃာတော်များ သည် လှေပေါ်က ဆင်းလိုက်ကြလျှင်ပင် "သရိုင် ရွှေမြေ"သို့ ခြေချရပြန်ချေပြီဟု အသိစိတ်များ ဝင် လာကြ၍ ကိုယ်စိတ်ရွှင်လန်းကာ ပင်ပန်းမှုတွေ လွင့် စင်ကုန်ကြရတော့၏၊ ဆရာတော်လည်း ထို့အတူပင် ဖြစ်ပါလိမ့်မည်။

ကမ်းစပ်တွင် ပြောရင်း ဆိုရင်း နှုတ်ဆက်ကြရင်း နှင့် ၁၀ မိနစ်ခန့်မျှ အနားယူကြပြီးလျှင် ဆက်လက် ၍ သရိုင်ရွာဘက်သို့ ခရီးဆက်ကြရာ ညနေ ၅ နာရီ ကျော်ကျော်တွင် "သရိုင်ရွာ ပင်းကျောင်းကြီး"သို့ ရောက်ကြပါတော့၏၊ ကျောင်းတော်ကြီးက သံဃာ တော်များကို စောင့်မျှော် ကြိုဆိုနေသလို ထင်ရ သည်။

## စေတီကြီးနှင့်ရဟန္တာသိမ်

ပင်းကျောင်းဝင်းကြီး အာရာမ်အတွင်းသို့ “ဘွား” ခနဲ ဝင်လိုက်လျှင်ပင် ပြုပြင်ပြီးစ ထုံးသင်္ကန်းဖွေးဖွေး နှင့် ရွှေဘုံသာဘုရားစေတီကြီးကိုလည်းကောင်း, ရှေးမူဟန်မပျက်ပြုပြင်ထားသော ရဟန္တာသိမ်ပြာသာဒ် အဆောက်အအုံကြီးကိုလည်းကောင်း ထီးထီးမားမား ကြီးတွေ ဖူးမြင်ကြရပါသည်၊ ဘုရားစေတီတော်ကြီး မှာ ရန်ကုန်မြို့တော်က “လေးဆူဓာတ်ပုံ ရွှေတိဂုံ ပုံတော်ကြီးအတိုင်း ဖြစ်ပါ၏။

ယမန်နှစ်က “ဤစေတီတော်ကြီးကို ပြုပြင်ပေး မည်”ဟု ဆရာတော်က အမိန့်ရှိသောအခါ သရိုင် ဒါယကာ ဒါယိကာမအများစုက“ရန်ကုန်က ရွှေတိဂုံ ဘုရားကြီးကို မဖူးဘူးပါ၊ ရွှေတိဂုံပုံလို ပြုပြင်ပေးပါ” ဟု လျှောက်ကြ၏၊ သို့ဖြစ်၍ ပန်းရံဆရာများကို ရွှေတိဂုံပုံအတိုင်း ပြုပြင်ပေးရန် ယမန်နှစ်က ညွှန် ကြားတော်မူခဲ့ရသည်၊ ရန်ကုန်မှ လိုက်ပါလာသော (ရွှေတိဂုံဘုရား ဂေါပကလူကြီး) အငြိမ်းစား ဒု-ဗိုလ် မှူးကြီးဟောင်း ဦးအောင်သိမ်းအား ဆရာတော်က “ဘယ့်နှယ်လဲ, ရွှေတိဂုံဘုရားကြီးနဲ့ တူရဲ့လား”ဟု မေးရာ “တူပါတယ်ဘုရား”ဟူ၍ လျှောက်လေသည်၊ ကြည်ညိုဖွယ်လည်း အလွန်ကောင်းလှပါ၏။



ထုံးသင်္ကန်းဖွေးဖွေးနှင့် ရွှေဘုံသာစေတီ

## သာယာလွန်းတဲ့ ရှုန်းအိသော ညဝယ်

ည ၇ နာရီခန့်အချိန်တွင် သံဃာတော်များက စေတီတော်ကြီးအား ဓမ္မစကြာသုတ်တော်, အနတ္တ လက္ခဏာသုတ်တော်များဖြင့် ရွတ်ဆို၍ ပူဇော်ကြ သည်၊ ဒါယကာ ဒါယိကာများလည်း လာရောက် နာကြားကြ၏။

ထိုအချိန်တွင် တန်ဆောင်မုန်းလပြည့်ကျော် ၁ ရက်နေ့ည ဖြစ်၍ အရှေ့လောကဓာတ်မှ ဝိုင်းအိ ဝင်းစက်သော လပြည့်ဝန်းကြီး၏ မျက်နှာက ပြုံးမြမြ ပေါ်လာပါတော့သည်၊ ပြာလဲ့လဲ့ နောက်ခံ ကောင်း ကင်နှင့် ထုံးဖြူဖြူစေတီတော်ကြီးတို့မှာ အေးမြသော လရောင်အောက်တွင် လွန်စွာမှ ပဏာရလှပါသည်၊ ရာသီဥတုကလည်း သာယာလွန်းလှပါ၏။

တစ်ချိန်တုန်းက အဇာတသတ် မင်းပျိုမင်းလွင် ၏ (ရမဏီယာ ဝတ ဘော ဒေါသိနာ ရတ္တိ, အဘိရူပါ ဝတ ဘော ဒေါသိနာ ရတ္တိ) ဆီးနှင်း မြူ တိမ် သူရိန် မီးခိုး ပြစ်မျိုးကင်းစင်၍ ကြည်လင်သော ည, ပျော်မွေ့ဖွယ်ကောင်းလှပါတကား၊ အလွန်လှပ သာယာလှပါတကား”ဟု ဥဒါန်းကျူးရင့်ရသော ညမျိုးပင်တည်း၊ ဟုတ်ပါသည်၊ အချိန်ကာလက လည်း မိုးလေးလအဆုံး, ရေပြင်ပေါ်မှာ ကုမုဒြာ ကြာတွေ ပွင့်၍ ကောင်းတုန်း တန်ဆောင်မုန်း လပြည့် ရှုန်းအိအိ အချိန်အခါ မဟုတ်ပါလော။

## ဒါနနှင့်သီလ ဘယ်သူကအရေးကြီး

သံဃာတော်များရွတ်ဆိုပူဇော်၍ ပြီးချိန်တွင် ဆရာတော် ကြွလာ၍ ဩဝါဒအနည်းငယ် ပေးတော်မူသည်၊ ထိုဩဝါဒတွင် အချုပ်မှာ "ဒါနပြုတဲ့နေရာမယ် စေတနာ သန့်သန့်ဖြင့် ပြုကြပါ၊ ပြီးတော့ ဒါနကိုသာ ပြုပြီး သီလ မလုံခြုံရင်လဲ ပြုထားတဲ့ ဒါနများရဲ့ အကျိုးတွေ လွတ်လွတ်လပ်လပ်ပေးဖို့ အခွင့်မရဘဲ နေတတ်တယ်၊ ဒါကြောင့် ဒါနနဲ့ တန်းတူ သီလကိုလဲ လုံခြုံအောင် ထိန်းကြပါ"ဟူ၍ ဩဝါဒပေးတော်မူ၏၊ ဟုတ်ပါသည်၊ ယခုခေတ်တွင် အများစုက လွယ်ကူသော ဒါနကို ပြုလွယ်တတ်ကြပါ၏၊ သီလကိုကား အနည်းငယ် ခက် လာသဖြင့် လက်တွန့်တတ်ကြသည်၊ ဤအချက်ကို ဆရာတော်က အားမရ ဖြစ်နေ၏။

သီလသည်လည်း အရေးကြီးလှ၏၊ သီလရှိမှ ဘဝ ကောင်းရသည်၊ ဘဝကောင်းရမှ ဒါန၏အကျိုးတွေကို ခံစားနိုင်မည် မဟုတ်ပါလော၊ ထို့ကြောင့် "သီလကို ချန် မထားကြပါနဲ့၊ အနည်းဆုံး ဒါနနှင့် တန်းတူအောင် ထားပြီး ကျင့်သုံးကြပါ"ဟု ဆရာတော်က ခဏ ခဏ သတိပေးနေတော်မူခြင်း ဖြစ်သည်။

ဤကား တရားနာပရိသတ်တို့တွင် လူပုဂ္ဂိုလ်တို့ လည်း ပါဝင်နေ၍ ဤသို့ ဩဝါဒပေးတော်မူခြင်း ဖြစ် သည်၊ ရဟန်းတော်များအတွက်မူကား သီလကိုသာ ဦးစားပေးရပေလိမ့်မည်၊ သီလကိုသာ ရှေ့တန်းတင်ရ ပေလိမ့်မည်၊ သီလကိုသာ နံပါတ် (၁) ထားရမည် ဖြစ်၏၊ အဘယ့်ကြောင့်ဆိုသော် ရဟန်းတို့အတွက် သီလလုံခြုံ နေရမည်သာ ဖြစ်သောကြောင့်တည်း။

သီလလုံခြုံနေလျှင် အစုံအလင် အောင်မြင်ပြီးစီးဖို့ အသင့်ဖြစ်ရသည်၊ ထိုသို့ ဖြစ်နိုင်ကြောင်းကို (ဣစ္ဆတိ ဘိက္ခဝေ သီလဝတော စေတောပဏိဓိ, ဝိသုဒ္ဓတ္တာ)ဟူ၍ပင် ဘုရားရှင်ဟောတော်မူထားသည် မဟုတ်ပါလော။

ထို့ပြင်လည်း "သီလ ဖြည့်ကျင့်မှုမရှိလျှင် မဂ်ဖိုလ် မရနိုင်ကြောင်း, သီလစင်ကြယ်စွာ ဖြည့်ကျင့်မှသာ မဂ်ဖိုလ်ရလွယ်ကြောင်း"ကို သံယုတ်ပါဠိတော်၌လည်း ကောင်း,"သီလပြည့်စုံမှသာ ထိုသီလမှ အဆင့်ဆင့် တက် ၍ မဂ်ဖိုလ်တိုင်အောင် ဆိုက်ကပ်နိုင်ပုံ"ကို အင်္ဂုတ္တိုရ် ပါဠိတော် ဒသကနိပါတ် ကိမတ္ထိယသုတ် တော်၌လည်း ကောင်း ဟောထားတော်မူချက်များ ရှိပေသေးသည်။

နေမိဇာတ်တော်၌ကား နေမိမင်းကြီးက ဥပုသ်နေ့ တစ်နေ့တွင် ဥပုသ်စောင့်ရင်း စဉ်းစားနေမိ၏၊ "ငါသည် ဒါနကိုလည်း ပေး၏၊ သီလကိုလည်း ဆောက်တည် ကျင့် သုံး၏၊ မည်သည့်အရာက ပို၍ မြတ်လေသနည်း"ဟု ဆုံးဖြတ်မရ ဖြစ်နေစဉ် သိကြားမင်း ဆင်းလာ၏။

("မဟာရာဇ ဒါနတော သတဂုဏေန သဟဿ ဂုဏေန သတသဟဿဂုဏေန ပြဟ္မစရိယ ဝါသောဝ မဟပ္ဖလော) မင်းကြီး ဒါနထက် သီလက အဆပေါင်း ရာ ထောင် သိန်းမက မြတ်ပေသည်"ဟူ၍ပင် အဖြေပေး သွားလေသည်။

## ရွှေကျင်သာသနာပိုင် ပေါက်ဖွားရာသိမ်

ဤနေရာတွင် ဆရာတော်က သီလနှင့်စပ်၍ သီလ ကို ဦးစားပေးပြီး ဩဝါဒပေးနေသည်မှာ နောက်ခံ ဇာတ်ကြောင်း အဓိပ္ပာယ်ရှိပါလိမ့်မည်၊ ယခုဖူးတွေ့နေ ရသော စေတီတော်ကြီးနှင့်ကပ်လျက်ရှိသော ရဟန္တာ သိမ်, ထိုသိမ်ကို အသုံးပြုတော်မူကြသော ရှေးဆရာ တော်ကြီးများ, ထိုဆရာတော်ကြီးများ၏ ကိုယ်ကျင့် သီလ လေးစားတော်မူကြပုံကို အာရုံတွင် ထင်လာ မြင်လာ တော်မူပါလိမ့်မည်၊ အနီးကပ်ဆုံးကား ဤ ရဟန္တာသိမ် ကြီးတွင် ရဟန်းဘောင်သို့ တက်သွားသော မဟာ ဝိသုဒ္ဓါရုံဆရာတော် လောင်းလျာ, ထို လောင်းလျာ၏ ဥပဇ္ဈာယ်ဆရာ ရွှေကျင်ရွာ ဇာတိ ဆရာတော်,ထိုဆရာ တော်၏ဆရာ သီးလုံးဆရာတော်ဘုရားကြီးများ အစရှိ သော မထေရ်ကြီးတို့သည် သီလကို လေးစားကြ၍ သီလ ကို ဦးစားပေးကြသော ဆရာတော်ကြီးများ ဖြစ်ပေ၏။

ထိုတွင် ဤနေရာ၌ မဟာဝိသုဒ္ဓါရုံ ဆရာတော် လောင်းလျာ၏ အကြောင်းအရာကို အနည်းငယ် ဖော်ပြ လိုပါ၏။

သက္ကရာဇ် ၁၂၀၀ ပြည့်နှစ် ဝါဆိုလဆန်း ၁၃ ရက် ညဉ့် ၃ ချက် တီးကျော် ဗုဒ္ဓဟူးနေ့သို့ အဝင်တွင် ရွှေဘို မြို့နယ် (သရိုင်ရွာအနီး) စမွန်းရွာတွင် မဟာဝိသုဒ္ဓါရုံ ဆရာတော်လောင်းလျာကို ဖွားမြင်ခဲ့သည်၊ ၇ နှစ်သား အရွယ်တွင် စမွန်းရွာ မဟာရုံတိုက် ဆရာတော် အရှင် ကဿပထံ ပညာသင်ရန် ခိုလှုံခွင့် ရ၏၊ ၁၃ နှစ်သား အရွယ်တွင် ရှင်သာမဏေ ဖြစ်သည်၊ ၁၇ နှစ်သား အရွယ်တွင် (သရိုင်ရွာ တောကျောင်း၌ သီတင်းသုံး လျက်ရှိသော) ရွှေကျင်ရွာဇာတိ ဆရာတော် အရှင် ဇာဂရ အထံတော်သို့ ရောက်၍ ပညာ ဆက်လက် သင်ကြားရ၏၊ ၁၂၁၉ ခု သီတင်းကျွတ်လပြည့်နေ့တွင်မူ သရိုင်ရွာ ဤသိမ်ကြီး၌ ရွှေကျင်ရွာဇာတိဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်ခဲ့သည်။

## သိမ်တော်မြတ်တွင် သိက္ခာတင်ခဲ့
### ဝိသုဒ္ဓါရုံလောင်းလျာ ရဟန်းခံ

ဤအကြောင်းအရာများကို သီဟိုဠ်ကျွန်းသား အရှင်သိရီဓမ္မက ပါဠိဂါထာပေါင်း (၂၃၀)ဖြင့် ခီးကျူး ရေးသား၍ လယ်တီပဏ္ဍိတက အနက်မြန်မာပြန်ဆို ထားသော (မဟာဝိသုဒ္ဓါရာမိကထေရုပ္ပတ္တိဒီပနီ)ကျမ်း တွင် ဤသို့မှတ်တမ်းတင်ထားသည်ကို တွေ့ရပါသည်။

**၁။ အထ ဇာဂရတ္ထေရဿ,**
**ဝိသဝဿော ၀ သန္တိကေ၊**
**ဟုတွာ သရိုင်တိ ဂါမမှိ,**
**မဟာသီမာယ သာဓုကံ။**

**၂။ သန္နိပတိတသံဃေန,**
**တေစနေ၀ ပိယသီလိနာ၊**
**ဥပဇ္ဈာယေန ထေရေန,**
**ဥပသမ္ပာဒိတော အဟု။**

အထ-ထိုအခါ၌၊ ဇာဂရတ္ထေရဿ-အရှင်ဇာဂရ (မည်သော ရွှေကျင်) မဟာထေရ်မြတ်၏၊ သန္တိကေ-အထံတော်၌၊ ဝိသဝဿော-အနှစ်နှစ်ဆယ်, သက် ရွယ် ချိန်ရောက်သည်၊ ဟုတွာဝ-ဖြစ်၍သာလျှင်၊ သရိုင်တိ ဂါမမှိ-သရိုင်မည်သော ရွာကြီး၌၊ မဟာ သီမာယ-မဟာသိမ်ကြီး၌၊ သာဓုကံ-ကောင်းမွန်စွာ၊ သန္နိပတိတသံဃေန-အညီအညွတ် စည်းဝေးရောက် လာသော သံဃာတော်သည်၊ ပိယသီလိနာ-ချစ်အပ် သော သီလရှိတော်မူသော၊ ဝါ-သီလကို ချစ်ခင်တော် မူသော၊ ထေရေန-မထေရ်မြတ် ဖြစ်တော်မူသော၊ တေစနေ၀ ဥပဇ္ဈာယေန-ထိုရွှေကျင်ဆရာတော်တည်း



ပထမရွှေကျင်သာသနာပိုင် ပေါက်ဖွားရာသိမ်

ဟူသော ဥပဇ္ဈာယ်ဖြင့်သာလျှင်၊ ဥပသမ္ပာဒိတော- ပဉ္စင်းခံအပ်သည်၊ အဟု- ဖြစ်ပြီ။

## လောကီဂုဏ်အင် စုံလင်ပါလည်း မခုံမင်ခဲ့

ထိုအချိန်ကား "ရွှေကျင်ဂိုဏ်း"ဟူ၍ မပေါ်သေး၊ "သုဓမ္မာဂိုဏ်း"ဟူ၍လည်း ကင်ပွန်းမတပ်ရသေး၊ သို့ ဖြစ်၍ ရွှေကျင်ရယ်-သုဓမ္မာရယ် ခွဲခြားနေစရာ မလို ဘဲ သရိုင်ရွာ ပတ်ဝန်းကျင်၌ ရှိကြသော လေးစား အပ်သော ဆရာတော်ကြီးများ ပါဝင်၍ (သရိုင်ရွာ ရွှေတောင်ကျောင်း ဆရာတော်ကြီး ခေါင်းဆောင်ပြီး လျှင်) ဤဥပသမ္ပဒါကံကို အတူတကွ ဆောင်ရွက် တော်မူခဲ့ကြမည်သာ ဖြစ်၏၊ ဤသည်တို့ကို မျှော် မှန်း ရော်ရမ်း၍ ဆရာတော်ဘုရားကြီးတို့ကို လေးစားမိ, ကြည်ညိုမိ, လက်အုပ်ချီမိပါတော့သည်။

မဟာဝိသုဒ္ဓါရုံဆရာတော်လောင်းလျာ ကောင်း စွာပင် ရဟန်းဘောင်သို့ ရောက်ခဲ့ပါလေပြီ၊ ဤ အခြေအနေသို့ ရောက်အောင် အတော်ပင် ရုန်း ထွက်ခဲ့ရ၏၊ ကံကောင်း၍ အောင်မြင်ခဲ့ခြင်း ဖြစ် သည်၊ ဘုရားလက်ထက်တော်တုန်းက သူဌေးသား ခြေဖဝါး အမွေးပေါက်သော အရှင်သောဏကဲ့သို့ ဖြစ်တော့သတည်း။

မှန်ပါ၏, ဤဆရာတော်လောင်းလျာ၏ မိဘတို့ သည် ထိုရွာ ထိုနယ်ပယ်တွင် ကြွယ်ဝချမ်းသာကြ ကုန်၏၊ (မဟာဒ္ဓန) များသောဥစ္စာ ရှိကြ၏၊ (မဟာ

ဘောဂ) များလှစွာသော အသုံးအဆောင် အိမ်ထောင်ပရိဘောဂ ရှိကြ၏၊ (ရတနတ္တယမာမက) ရတနာသုံးပါးတို့ကိုလည်း လေးစား ရိုကျိုးမြတ်နိုးသူများ ဖြစ်ကြ၏၊ ထို့ပြင် ဥယျာဉ်ခြံမြေ အထွေထွေ အဖြာဖြာ လယ်ယာစိုက်ခင်းတို့လည်း ဝဲ ယာ ရှေ့ နောက် တောင် မြောက်အနှံ့ ပြန့်လျှံက် ရှိကြကုန်၏၊ နွားရှဉ်း ကျွဲရှဉ်းနှင့် မြင်းတို့သည်လည်း ပေါများကြ၏။

ဘိုးဘေးမိဘလက်ထက်တို့မှ စ၍ အစဉ် မပျက် အဆက်ဆက်ဆင်းသက်လာကြသော အိမ် ကျွန် အိမ်ထောင်စု ၂၅ အိမ်ရှိ၏၊ လူဦးရေကား ၁၀၀ ကျော်ရှိသည်၊ ဆွေဂုဏ် မျိုးဂုဏ် ဓနဂုဏ်နှင့် ဩဇာဂုဏ်တို့လည်း ပြည့်စုံကြ၏၊ ဤမျှလောက် ကြွယ်ဝသော မိဘတို့ပေတည်း။

ဆရာတော်လောင်းလျာကား ဤမျှကြွယ်ဝသော မိဘတို့ ဝမ်း၌ စွဲပိုက်၍ ပဋိသန္ဓေတည်နေကာ ဖွားမြင်လာခဲ့သူ ဖြစ်သည်၊ ဆရာတော်လောင်းလျာ အထက်တွင် အစ်ကိုကြီးတစ်ယောက် ရှိခဲ့၏၊ လူ့ဘောင်မှာ အိမ်ထောင်နှင့် နေသည်၊ ဆရာတော်လောင်းလျာကိုလည်း (မိဘတို့က)အိမ်ထောင်နှင့်ပင် နေစေချင်ကြသည်၊ သို့မှသာ ပစ္စည်းဥစ္စာတို့ကို အမွေဆက်ခံမည့်သူ ရှိမည်မဟုတ်လော။

သို့သော်လည်း ဆရာတော်လောင်းလျာကမူ မခံမမင် မစုံမမက် ရုန်းထွက်ခဲ့၏၊ မိဘတို့က အမျိုးမျိုး ဖြားယောင်းကြသည်၊ သို့သော် လူ့ဘောင်သို့ စိတ်မလည်ခဲ့၊ လောကီနယ်မှ ဖယ်ထွက်၍ လောကုတ္တရာဘက်တွင် စာပေသင်ကာ အသက် ၂၀ ပြည့်ရာတွင် ရဟန်းဘောင်သို့ တက်ခဲ့သည်။

## အံ့ဩဘနန်း ကြက်သီးဖြန်းမျှ

ဆရာတော်၏ အကြောင်းအရာကို ကောင်းစွာ လေ့လာကြည့်လျှင် အံ့ဩဘနန်း ထူးဆန်းလှသဖြင့် ကြက်သီးဖြန်းဖြန်း ထလောက်အောင် အရသာရှိလှပါသည်၊ လောကီရမ္မက်တွေကို မဖက်မတွယ် စွန့်ပယ်ပြီးနောက် ရဟန်းဘောင်သို့ ရောက်နိုင်သည်မှာလည်း အံ့ဩစရာ ဖြစ်၏၊ ထိုသို့ စွန့်လွှတ်နိုင်သလောက် ရွှေကျောင်းဆရာတော်ဘုရားတို့ကို အမှီအခို အရိပ်တကဲ ရလိုက်ခြင်းမှာလည်း အံ့အားသင့်ဖွယ်ကောင်းသော အချက်ပင် ဖြစ်၏။

ထို့နောက်တွင် ဤဝိသုဒ္ဓါရုံဆရာတော်လောင်းလျာ၏ ဆောင်ရွက်ချက်ကို ကြည့်ရှုကြပါဦး။

မိဘများ ကွယ်လွန်ကြ၍ အမွေပစ္စည်းများ ဝေကြသောအခါ ရှိသမျှ ဥစ္စာဘဏ္ဍာတို့ကို ဆရာတော်က အစ်ကိုကြီးအား အကုန်ပေးပစ်လိုက်၏၊ ဆရာတော်ကမူကား မိဘတို့ထံတွင် မရှိဆင်းရဲ မွဲသူများက ချေးငှားထားသော ကြွေးစာရင်းများနှင့် ကျွန် အိမ်ထောင်စု ၂၅ အိမ်၊ လူဦးရေအားဖြင့် ၁၀၀ ကျော်တို့ကိုသာ ဝေစုယူတော်မူသည်၊ ပြီးလျှင် ကြွေးစာရင်းဟူသမျှ အကုန်လျှော်ပစ်၍ ကျွန်ဦးရေ ၁၀၀ ကျော်တို့ကိုလည်း မြီစားကျွန်အဖြစ်မှ အကုန် လွှတ်တော်မူလိုက်၏၊ "လွတ်လွတ်လပ်လပ် ကိုယ့်ဘဝကိုယ် ထူထောင်နိုင်ကြစေ"ဟူ၍ ခွင့်လွှတ်တော်မူလေသည်၊ ဤကဲ့သို့ ပြုနိုင်ခဲလှစွာသော ဒုက္ကရအမှုကြီးကို ပြုတော်မူနိုင်ပေသော ဆရာတော်အရှင်သူမြတ်၏ ဂုဏ်ဒြပ်ကား အံ့ဩဖွယ်ကြီးပေတကား။

**ဗဟူနံ ဝတ အတ္ထာယ, မဟာထေရော သမုဋ္ဌိတော၊**
**တမာဂမ္မ ဇနာ သန္တာ, အဟော ဂုဏမဟန္တတာ။**

ဗဟူနံ-များစွာသောင်းသောင်း,လူအပေါင်းတို့၏၊ အတ္ထာယ-အကျိုးငှာ၊ မဟာထေရော-မဟာထေရ်မြတ်သည်၊ သမုဋ္ဌိတော ဝတ-ကောင်းစွာ ဖြစ်ထွန်း ပေါ်ပေါက်တော်မူလာခဲ့ပြီတကား၊ တံ-ထိုမထေရ်မြတ်ကို၊ အာဂမ္မ-အကြောင်းပြု၍၊ ဇနာ-သတ္တဝါအပေါင်းတို့သည်၊ သန္တာ ဝတ-ငြိမ်းချမ်း သက်သာကြကုန်ပြီတကား၊ ဂုဏမဟန္တတာ-မထေရ်မြတ်၏ ဂုဏ်ဒြပ်ကြီးသည်၏ အဖြစ်သည်၊ အဟော- ဩော် ... လက်ဖျစ်တီး၍ အံ့ချီးထိုက်ပါပေစွတကား။

## ရွှေကျင်ဂိုဏ်းနှင့်သုဓမ္မာဂိုဏ်းပေါ်လာ

ရွှေကျင်ဆရာတော်သည် နောက်ပိုင်းတွင် ရွှေဘို မြို့နယ် ရှိမ်းမကားရွာ တောရကျောင်းသို့ ပြောင်းရွှေ့ သီတင်းသုံးတော်မူသည်၊ မဟာဝိသုဒ္ဓါရာမဆရာ တော်လောင်းလျာလည်း ဥပဇ္ဈာယ်ဆရာတော် နောက်သို့ လိုက်၍ ၁၂၂၀ ပြည့်နှစ်တွင် ရှိမ်းမကား တောရမှာပင် ဝါကပ်တော်မူသည်၊ မင်းတုန်းမင်းသား သည် ၁၂၁၄ ခုနှစ်တွင် ထီးနန်းရပြီးနောက် အမရ ပူရမှ မန္တလေးမြို့နေရာသို့ ရွှေ့ပြောင်းကြပြီးလျှင် ရွှေကျင်ဆရာတော်ကို နေပြည်တော်သို့ ပင့်၏။

ထို့ကြောင့် ၁၂၂၂ ခုနှစ် ဝါတွင် မန္တလေးရွှေကျင် တိုက်မဋ္ဌ ဝါကပ်တော်မူ၏၊ မဟာဝိသုဒ္ဓါရာမ လောင်းလျာသည်လည်း မိမိဥပဇ္ဈာယ်ဆရာနှင့်အတူ ထိုတိုက်၌ပင် ဝါကပ်တော်မူ၏၊ မန္တလေးတောင်၏ မြောက်ဘက် မဟာဓမ္မိကာရာမတိုက် ဟူသော ရွှေကျင်တိုက်မနှင့်တကွ ထရံကာတိုက်, ရမည်းသင်း တိုက်,မင်းကင်းတိုက်, မြတောင်တိုက်ဟူသော အရန် ၄ တိုက်ပါ "ရွှေကျင် ၅ တိုက် ဖြစ်ပေါ်လာသည်။

နောက်ပိုင်းတွင်မှ ရွှေကျင် ဆရာတော်နှင့် သဘောတူရာ တပည့်ပရိသတ် အပေါင်းကို... "ရွှေကျင်ဂိုဏ်း"ဟူ၍လည်းကောင်း, မန္တလေးတောင် ၏အနီး တောင်ဘက် သုဓမ္မဇရပ်သဘင်မှ "ရဟန်း တို့နှင့်ပတ်သက်သော မှုခင်းဟူသမျှကို စီရင်ရ၍ "ထိုသုဓမ္မာသဘင်၏ လက်အောက်ခံ ရဟန်းသံဃာ တော်များကို "သုဓမ္မာဂိုဏ်း"ဟူ၍လည်းကောင်း ခေါ်တွင်လာကြသည်။

ဤသို့လျှင် ရွှေကျင်ဂိုဏ်းကြီး၏ ဦးစီးနာယက ပဌာနဆရာတော်မှာ ဂဏသမုဋ္ဌာပက ဂဏနာယက ဂဏပိတာ ဖြစ်တော်မူသော ရွှေကျင်ဆရာတော် ဘုရားကြီးပင် ဖြစ်သည်၊ တစ်ဂိုဏ်းလုံးမှလည်း အားလုံးသဘောတူ "ပထမရွှေကျင်သာသနာပိုင်" အဖြစ် အသိအမှတ် ပြုထားတော်မူကြသည်၊ ဂိုဏ်း ကြီး၏ ဦးစီးသခင်အဖြစ် ဆောင်ရွက်လျက် သက္က ရာဇ် ၁၂၅၅ ခု တပေါင်းလပြည့်ကျော် ၇ ရက်နေ့ တွင် ဘဝနတ်ထံ ပျံလွန်တော်မူခဲ့သည်။

ထို့ကြောင့် ဈာပနကိစ္စအပြီးတွင် တစ်ထောင်မျှ လောက်သော ဆရာတော်သံဃာတော်များက မဟာ ဝိသုဒ္ဓါရာမဆရာတော်ကို "ဒုတိယရွှေကျင်သာသနာ ပိုင်"အဖြစ် ရွေးချယ် တင်မြှောက်တော်မူကြသည်။

## ရွှေကျင်သာသနာပိုင်နှစ်ပါး ဖွားရက်နှင့် မိခင်ပါ တူနေကြခြင်း ဘဝါဘဝတို့က ဘယ်သို့ပါလိမ့်

ဤသို့လျှင် ရွှေကျင်သာသနာတော်ကြီးတွင် နေ လို လ လို ထင်ရှားတော်မူခဲ့ကြ၍ "သာသနာပိုင်" ဖြစ်တော်မူခဲ့ကြသော ဆရာတော်ဘုရားကြီးများ သည် သရိုင်ရွာ ဤရဟန္တာသိမ်ကြီး"တွင် ကံကြီး ကံငယ် ဆောင်၍ အသုံးပြုတော်မူခဲ့ကြဖူးသည်၊ ထို့ကြောင့် အားရကြည်နူး အထူးသဒ္ဓါ ဖြစ်ခဲ့ကြရ ပါသည်။

**မှတ်ချက်။** ။ ဤနေရာတွင် အထူးအံ့သြဖွယ် ကောင်းသော အချက်တစ်ခုကို တင်ပြလိုပါသေး သည်၊ ရွှေကျင်သာသနာပိုင် ဆရာတော်ဘုရားကြီး နှစ်ပါးတွင် ပထမ ရွှေကျင်ဆရာတော်ဘုရားကြီးက သက္ကရာဇ် ၁၁၈၄ ခု **ဝါဆိုလဆန်း ၁၃ ရက်** အင်္ဂါ နေ့တွင် ရွှေကျင်ရွာ၌ ဦးမောင်+**ဒေါ်မိ**တို့မှ ဖွားမြင် တော်မူ၏။

ဒုတိယရွှေကျင်သာသနာပိုင်ဆရာတော်ဘုရား ကြီးက သက္ကရာဇ် ၁၂၀၀ ပြည့်နှစ် **ဝါဆိုလဆန်း ၁၃ ရက်** ည၌ ၇ ချက်တီးကျော် ဗုဒ္ဓဟူးနေ့သို့ အဝင် တွင် စမွန်းရွာ၌ ဦးမို+**ဒေါ်မိ**တို့မှ ဖွားမြင်တော်မူ သည်။

ဤသို့လျှင် ဘဝါဘဝက ဘယ်သို့ ပါရမီထူးရှိခဲ့ ကြသည် မသိ၊ ရေစက်အားဖြင့် ဘယ်သို့ ဘယ်နှယ် ဆက်သွယ်ခဲ့ကြသည် မသိ, ပထမသာသနာပိုင် ဒုတိယသာသနာပိုင် ဖြစ်တော်မူကြမည့် ဆရာတော် ဘုရားကြီး နှစ်ပါးလုံး ဝါဆိုလဆန်း ၁၃ ရက်နေ့မှာ ချည်း တူညီနေသည့်အချက်နှင့် မိခင်နာမည်ချင်း တူနေသည့် အချက်တို့ကို တင်ပြလိုခြင်းပင် ဖြစ်ပါ သည်။

ထူးဆန်း အံ့သြဖွယ်ပေတကား။

## သမိုင်းမော်ကွန်းတင်ထားခြင်း



သရိုင်ရွာတွင်ပြုလုပ်ခဲ့သောအလှူများအတွက် ရေစက်ချပေးနေသော ဆရာတော်နှင့် အလှူရှင် ဦးထိန်ဝင်း မိသားစု

ဤသို့လျှင် ဤ ရဟန္တာသိမ်တော်ကြီးနှင့် ပတ်သက်၍ နောက်ကြောင်း နောက်ခံ ခိုင်မာပြီး ကြည်ညိုစရာကောင်းသောကြောင့်လည်း ဒကာ ထိန်ဝင်းစသော အလှူရှင်တို့က သဒ္ဓါထက်ထက်ဖြင့် ပြုပြင် မွမ်းမံကြခြင်း ဖြစ်သည်။

ဤသို့ အသစ်တစ်ဖန် ပြုပြင် မွမ်းမံခြင်းကို နောင်လာ နောက်သားတို့ ကုသိုလ် ပွားရစ်ရန် ဆရာတော် အရှင်ဇနကာဘိဝံသက အောက်ပါ အတိုင်း သမိုင်းမော်ကွန်း ရေးထိုးပေးလေသည်။

(ယခုအခါ ကျောက်ပြားနှင့်တကွ တည်ရှိ၏။)

### ထပ်မံပြုပြင်ခြင်းမော်ကွန်းကျောက်စာ

ရန်ကုန်မြို့ စိန်ဂျွမ်းလမ်း အမှတ် ၁၀၇
ဦးထိန်ဝင်းနှင့် (နှမ) ဒေါ်လှသွင်တို့က
ရဟန္တာ သမုတ်အပ်သာ သိမ်တော်ဟု
ထင်ရှားသည့်အပြင် ဓမ္မကျင်သာသနာပိုင်
ဆရာတော်ကြီးကို ဥပဇ္ဈာယ်ပြု၍
ဒုတိယဓမ္မကျင်သာသနာပိုင် မဟာ
ဝိသုဒ္ဓါရုံဆရာတော်ကြီး၏ ရဟန်းဖြစ်ရာ
သိမ်တော် ဖြစ်သည်ကို ကြည်ညိုသောကြောင့်
သိမ်တန်ဆောင်း ပြင်ရာ၌ နီးကပ်လျက်
ပျက်နေသော ရှေးဟောင်း စေတီတော်ကြီးကိုပါ
(သရိုင်ရွာဇာတိ ကျမ်းပေါင်း များစွာကို ပြု၍
သာသနာတော်ကို ဆောင့်ရှောက် နေသော
အရှင်ဇနကာဘိဝံသ၏ ဆန္ဒတော်အတိုင်း
ဆရာတော်၏ ဒါယကာ ဒါယိကာမများ,
အနီးအပါး ဆရာတော်များနှင့် နယ်သူ
နယ်သားတို့၏ ငွေအား လူအား အကူအညီကို
ခံယူ၍) ပြုပြင် ပူဇော်ကြပါသည်။

သာသနာတော်နှစ် - ၂၅၁၈ ခုနှစ်
မြန်မာသက္ကရာဇ် - ၁၃၃၆ ခုနှစ်



# သာသနာနှင့်ဒါယကာ တာဝန်ကိုယ်စီကျေကြမှ
## ခပ်သိမ်းသောသတ္တဝါ ချမ်းသာကြစေဖို့

သရိုင်ရောက်ပြီး နောက်တစ်နေ့ နံနက်စောစော ၄ နာရီ၌ (မဟာဂန္ဓာရုံကျောင်းတိုက်မှာကဲ့သို့ပင်) တုံးကြီးခေါက်၍ သံဃာတော်များ အိပ်ရာမှ ထကြရ၏။

အရုဏ်မတက်မီအတွင်းမှာ ထုံးစံအတိုင်း မိမိတို့ နှစ်သက်ရာ ဘာဝနာတစ်ခုခုကို ပွားနေကြရသည်၊ အရုဏ်တက်လာသောအခါ အချက်ပေးတုံးကလေး ခေါက်သဖြင့် သံဃာတော်များက သက်နှီးရုံ၍ စီတန်းပြီး စေတီလှဘုရားတန်ဆောင်းကြီးထဲတွင် သပိတ်ဖြင့် ယာဂုဆွမ်းခံကြရ၏။

ပြီးလျှင် ဇရပ်ကြီးပေါ်မှာ ဘုဉ်းပေးကြရသည်၊ ထို့ပြင် ရေနွေးကြမ်းဖြင့် တောရွာမှာ ဖြစ်သော တောမုန့်များကိုလည်း ဘုဉ်းပေးကြရ၏။

ယခုနှစ်တွင်လည်း ... (ယမန်နှစ်ကကဲ့သို့ပင်) ဆရာတော်က မှာကြားထား၏၊ မုန့်ပဲသရေစာများ ကပ်လျှင် မြို့က မုန့်တွေကို ဝယ်ပြီး မကပ်ရ, တောမှာ ဖြစ်သော တောဖြစ် မုန့်များကိုသာ ကပ်ကြရသည်။

ဆရာတော်က စရိတ်စက အကုန်အကျလည်း သက်သာ, ရှေးအစဉ်အလာကိုလည်း မပျောက်စေလို၍ ဖြစ်ဟန်တူပါ၏။

ထို့အပြင် "ဆွမ်းကပ်ရာ၌လည်း သားစိမ်း ငါးစိမ်းများ မပါစေရ"ဟု အမိန့်ထုတ်ထားသည်၊ သတ္တဝါ များ ချမ်းသာစေချင်၍ ဖြစ်၏။

ထို့ကြောင့် ဒါယကာ ဒါယိကာမများက သက်သတ်လွတ်ဟင်းများ စီမံ ချက်ပြုတ်၍ ကပ်ကြသည်၊ သို့မှလည်း မိမိတို့ ပို့သလာခဲ့သော မေတ္တာနှင့် ဟပ်မည် မဟုတ်ပါလော။

## မေတ္တာ ကရုဏာ မုဒိတာပါ ဖြစ်ရ

မှန်ပါသည်၊ အသားတွေကို မညှာမတာ စားသောက်ပြီးကာမှ "သတ္တဝါတွေ ကျန်းမာပါစေ, ချမ်းသာပါစေ, အသက်ရှည်ပါစေ"ဆိုလျှင် ရှေ့နှင့် နောက်မညီတတ်၍ အဟောနှင့် အပြော မကိုက်ဟု စွပ်စွဲကြဖွယ် ဖြစ်၏။

ထို့ကြောင့် မေတ္တာခရီးတစ်လျှောက်တွင် မေတ္တာဘာဝနာနှင့် ကိုက်ညီအောင် စားသောက်ရေးကိုလည်း စီစဉ်တော်မူခြင်း ဖြစ်ပေသည်။

ဒါယကာ ဒါယိကာမတို့ကလည်း အတိအကျပင် လိုက်နာဖော်ရကြပေ၏၊ ဤသို့ဖြင့် ဆရာတော် အမှူးပြုသော သံဃာတော်များ ဤနယ် ဤဒေသသို့ ကြွလာကြသည့်အတွက် မည့်သည့် သားငါးသတ္တဝါ မျိုးမျှ (ဟင်းအဖြစ်) သေ၍ မပေးကြရ။

ထို့ကြောင့် ထိုသတ္တဝါများကလည်း အထူး ကျေနပ်ကြပေလိမ့်မည်၊ မေတ္တာလည်း တုံ့ပြန်ကြပါလိမ့်မည်။

အကယ်၍များ ထိုသတ္တဝါတွေသာ စကားပြောတတ်ကြမည်ဆိုပါလျှင်...

"ဆရာတော် အရှင်မြတ်တို့ဘုရား တပည့်တော်တို့ကို သတ်ဖြတ် မစားကြအောင်လည်း လူတွေကို တရားဟောပေးခဲ့ပါဦး ဘုရား, လူတွေက သိပ်ဆိုးကြပါတယ်, မညှာကြဘူး ဘုရား"ဟူ၍ပင် လျှောက်တင်ကောင်း လျှောက်ကြမည့်လား မသိ။

ဤသို့လျှင် သနားစရာကောင်းသော သတ္တဝါကလေးများကို ငဲ့ရသဖြင့် ကရုဏာလည်း ဖြစ်ရ, သူတို့အသက် ချမ်းသာရာ ရကြသည်ကို သိရ၍ ဝမ်းမြောက်ရသဖြင့် မုဒိတာလည်း ဖြစ်ကြရပါသည်။

## မင်္ဂပွင့် ဖိုလ်သီး စားသုံးနိုင်ရန်

ယခုနှစ် သံဃာတော်တွေ ပို၍ များသဖြင့် ပို၍ အားရစွာ လာရောက် ဆွမ်းကပ်ကြသည်၊ နံနက်ဆွမ်း နေ့ဆွမ်း သက်သတ်လွတ်ချည်းပင် ဖြစ်၏၊ ဖွယ်ဖွယ်ရာရာ စီမံထားကြသဖြင့် မွန်မြတ်လှပါသည်၊ သရိုင်ရွာသာမက အခြားရွာတို့ကလည်း လာရောက်၍ စုပေါင်း ဆွမ်းကပ်ကြ၏၊ ဆွမ်းကပ်ဖို့ အလှည့်မရသော ရွာတို့က သံဃာတော်များကို ပင့်၍ ပရိတ်နာကြပြီးလျှင် ဆွမ်းဆန်စိမ်း လောင်းလှူကြသည်၊ ဆန်သာမက ငရုတ် ကြက်သွန် ပဲ အာလူး ထန်းလျက်တို့လည်း ပါ၏၊ သည်တစ်ရွာက ပင့်သလို ဟိုတစ်ရွာကလည်း ပင့်ကြ၏။

ထို့ကြောင့် သံဃာ အပါး ၅၀ စီ, ၅၀ စီ ခွဲ၍ လိုက်ပါကြရသည်၊ နေရာတကာ ရောက်လေရာ အရပ်တိုင်းက အရေးပေးကြ၏၊ လေးစားကြ၏၊ ရိုသေကြ၏၊ ကြည်ညိုကြ၏၊ ပစ္စည်းပစ္စယတို့ကိုလည်း လှူလိုက်သေးသည်။ "မျက်နှာပန်းပွင့်ကြသည်"ဟု ဆိုရမည် ဖြစ်၏၊ ဆရာတော်က အမေ့ရွာဖြစ်၍ ဆွေတွေ မျိုးတွေ ကြားမှာ မျက်နှာပန်း ပွင့်ရသလို သံဃာတော်များကလည်း အဖေ့နောက်က လိုက်လာခဲ့ကြ၍ အဖေ့ရွာ အဖေ့နယ် ဖြစ်သောကြောင့် မျက်နှာပန်းတွေ ပွင့်ကြရလေသည်၊ ဆွေဂုဏ် မျိုးဂုဏ် ပစ္စည်းဂုဏ်တွေကြောင့်ပေလော။

အမှန်တကယ် စိစစ်လျှင်ကား ထိုသို့ မဟုတ်ပြန်သေးချေ၊ မည်သို့ပင် ဆွေရင်းမျိုးချာတွေ ဖြစ်စေကာမူ လေးစားဖွယ် မဟုတ်လျှင် မလေးစားနိုင်၊ ရိုသေဖွယ် မဟုတ်လျှင် မရိုသေနိုင်၊ ကြည်ညိုဖွယ် မဟုတ်လျှင် မကြည်ညိုနိုင်ကြပေ၊ အကြောင်းရင်း အမှန်ကား သုံးလောကထွတ်ထား ဘုရားရှင် ကိုယ်တော်မြတ် မိန့်မှတ်အပ်သာ ဝိနည်းကိုယ်ကျင့် သီလကြောင့်သာတည်း။

ထို့ကြောင့် မျက်နှာပန်းပွင့်ဖို့ ပီယဆေးကား သီလဖွေးခြင်းသာတည်းဟု သိရပါတော့၏။

## သဒ္ဓါမိုးစေ၍ စေတနာမျိုးစေ့ကြဲ

ဝိနည်းတရားတော်နှင့်အညီ နည်းနည်းကျင့်လျှင် နည်းနည်းကြည်ညိုဖွယ် ဖြစ်၍ များများကျင့်လျှင် များများကြည်ညိုဖွယ် ဖြစ်ရ၏၊ သံဃာတော်များမှာ (အနုတ္တရံ ပုညက္ခေတ္တံ လောကဿ)အရ ကိုယ်ကျင့်သီလ ပြည့်ဝဖြူစင်၍ လယ်ယာမြေကောင်းသဖွယ် ဖြစ်ကြရာ၌လည်း ထို့အတူပင် ဖြူစင်လျှင် ဖြူစင်သလောက် သံဃာတော်များက လယ်ယာမြေကောင်းပမာ ဖြစ်ကြရ၏။

ဒါယကာ ဒါယိကာမများ၏ စေတနာတွေမှာ မျိုးစေ့တွေနှင့် တူကြ၏၊ ကြည်ညိုမှု မြတ်နိုးမှု လေးစားမှု ဝမ်းမြောက်မှု ယုံကြည်မှု သဒ္ဓါတရား အစုတို့ကား မြေကြီးကို စွတ်စိုပေးသော မိုးရေများနှင့် တူလှပေသည်။

ယခုအခါတွင် သရိုင်ရွာနှင့် သရိုင်ဝန်းကျင်မှ ဒါယကာ ဒါယိကာမတို့က (မိုးတွင်းတုန်းက မိုးတွေ ရွာအပြီးတွင် လယ်ယာမြေတို့အပေါ်၌ မျိုးစေ့တွေ ကြဲချ စိုက်ပျိုးခဲ့၍ အသီးအနှံတွေ ရခဲ့ကြသလို) ယခုအခါ သံဃာတော်တည်းဟူသော လယ်ယာမြေတို့ အပေါ်၌ သဒ္ဓါမိုးတွေ သွန်းဖြိုး ရွာကြပြီးလျှင် စေတနာမျိုးစေ့တွေ ဖြန့်ကြဲ စိုက်ပျိုးနေကြ၏။

မင်္ဂပွင့် ဖိုလ်ပွင့်နှင့် မင်္ဂသီး ဖိုလ်သီးတို့ကို ဆွတ်ခူး ပန်ဆင် စားသုံးနိုင်ကြရန် ဖြစ်လေသည်။

ဤသို့လျှင် သာသနာတော်နှင့် ပတ်သက်လာပါက တောက်ပံ့ကြသည့် ဒါယကာ ဒါယိကာမတို့ ဘက်မှာ "လိုသည်ဟူ၍ပင် ဆိုစရာ မရှိချေ" မိမိတို့ ရဟန်း သံဃာတော်များ ဘက်မှသာလျှင် အစဉ် ထာဝရ ကြိုးစားနေကြဖို့ လိုအပ်သည်၊ သူ့ဘက် ကိုယ့်ဘက် တာဝန်ကျေကြရမှ ဖြစ်မည်။

# သရိုင်ရွာ၌ ဆရာတော်၏တရား

## ဘယ်တော့မှာ ဘာလိုလိုနှင့်

နေ့လယ်ပိုင်း၌ ဟိုရွာ သည်ရွာက လာပင့်၍ သံဃာတော်များက လိုက်ပါကြရသော်လည်း ညနေ တိုင်လျှင် သရိုင်ရွာသို့ ပြန်ကြရသည်သာ ဖြစ်၏၊ အဘယ့်ကြောင့်ဆိုသော် ညပိုင်း၌ (မဟာဂန္ဓာရုံမှာ လိုပင်) ဘုရားဝတ်တက်ကြရ၊ ဆရာတော် တရား မဟောခင် ပရိတ်ရွတ်ကြသေးသောကြောင့်တည်း၊ ယနေ့ညလည်း ရွတ်ကြရ၏၊ သရိုင်ရွာလယ်ခေါင်က အစိုးရမူလတန်းကျောင်းဝင်းကြီးထဲ၌ ဆရာတော် တရားဟောတော်မူ၏၊ ပရိသတ်ကား ယမန်နှစ်က ထက် မလျော့ပေ၊ များချင်သာ များပေမည်။

ယမန်နှစ်က တရားဟောမှန်း မသိလိုက်၍ မနာ လိုက်ရသော သူတို့ပါ ယခုနှစ် ပါလာကြသည်ဟု ဆို၏၊ "ပုဂ္ဂိုလ်ခင်သဖြင့် တရားကိုပါ မင်သည်"ဟု ဆိုရလေမည်လား မပြောတတ်၊ ဆရာတော့်အပေါ် ကြည်ညိုလေးစားကြသည်ကား အမှန်ပင် ဖြစ်၏၊ ဆရာတော်က တရားစ၍ ချီနေလေပြီ။

"ဒီနယ်က ဒါယကာ ဒါယိကာမတွေက ဒုတိယ ရွှေကျင်သာသနာပိုင် မဟာဝိသုဒ္ဓါရုံဆရာတော် ဘုရားကြီးနဲ့ သွေးသားတော်စပ်ကြတဲ့ ဆွေတွေ မျိုးတွေ ဖြစ်ကြတယ်၊ ဆရာတော်ကြီးက ဒါယကာ ဒါယိကာမတွေ အပေါ်မှာ အင်မတန် ကောင်းကျိုး လိုလားတော်မူလေ့ရှိတာ။

တစ်ခါကတော့ ဒကာ ဒကာမတွေအပေါ် အား မရနိုင်လို့ ဆရာတော်ကြီးက သတိပေးတဲ့စာကလေး တစ်ပုဒ်ရေးတော်မူတယ်၊ သူ့စာက...

> **ဘေးပွဲရယ်ကြုံ၊**
> **အေးသဲတုန် ကိုယ်စီကုတ်ပါလို့၊**
> **အားထုတ်သင့်သား၊**
> **သို့ပါကို ဘယ်တော့ ဘာလိုလိုနဲ့၊**
> **နောင်ရေးကို မျှော်ခေါ်ချင့်လို့၊**
> **ဘာဝနာသီခေါင်လွှင့်တယ်၊**
> **ဖျင်းဖင့် အများ ...... တဲ့။**

လူတွေဟာ အိုရတယ်, နာရတယ်, သေရတယ်, စီးပွားဥစ္စာတွေ ရှာရတယ်, ပျက်ပြားရတယ်၊ ထို့ အတူပဲ ရဟန်းသံဃာတွေလဲ အိုရ နာရ သေရတာပဲ၊ သေကျေ ပျက်စီးကြရတာပဲ၊ ဒီတော့ကာ ဒါတွေဟာ ကြောက်စရာကောင်းတဲ့ ဘေးတွေ မဟုတ်ပါလား လို့ ဘေးပွဲတွေ တွေ့ကြုံနေကြရတာပဲ။

ဒါတွေကို မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီး က စေ့စေ့တွေးလို့ ညက်ညက်စဉ်းစားထားတော်မူ တာ၊ တွေးလိုက်တိုင်း အသည်းတွေ အေးစရာ, ရင် တွေ တုန်စရာ ဖြစ်လို့မို့ "ဘေးပွဲရယ်ကြုံ၊ အေးသဲ တုန်"လို့ စပ်ဆိုတော်မူခြင်း ဖြစ်ပေတာပဲ။

## ဥုံဖွလုပ်ထားတာ မဟုတ်ဘူးနော

ဒီလို ဘေးရန်အန္တရာယ်ပွဲတွေနဲ့ မကင်းလို့ ကိုယ် စီ ကိုယ်ငကြိုးကုတ်အားထုတ်သင့်တယ်တဲ့၊ ဘဝ အာမခံချက်ရအောင် သမထ ဝိပဿနာ ဘာဝနာ အလုပ် အားထုတ်သင့်တယ်တဲ့၊ သို့ကလောက်ပင် အရေးကြီးနေတဲ့ ကြားထဲက "ဘာတော့ ဘာဖြစ်မှာ လိုလိုနဲ့, ဘယ်အချိန်မှာ သူဌေးသူကြွယ်ဖြစ်မှာလိုလို, ဘယ်အချိန်မှာ အလုပ် မလုပ်ဘဲနဲ့ ပုတ်ထဲ ပြည့်လာ မှာလိုလို, မကြိုးစားဘဲနဲ့ အလိုလို ကြီးပွားတိုးတက် လာမှာလိုလို"နဲ့ မသေချာတဲ့ နောင်ရေးနောင်တာ အနာဂတ်တွေကို မျှော်ခေါ်တောင့်တပြီး အချိန်တွေ ကို အလဟဿ အကုန်ခံနေကြတယ်တဲ့၊ သေချာတဲ့ လက်တွေ့ ဘာဝနာအလုပ်ကိုတော့ မလုပ်ကြဘူးတဲ့၊ (မြည်တွန်တောက်တီးသလိုကြီးပဲ) ကရုဏာဒေါ သောနှင့် ဟောတော်မူထားတာ ဖြစ်တယ်။

မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးရဲ့ ဒီစာချိုး က ဒကာ ဒကာမတွေအတွက်သာ မကပါဘူး၊ ရဟန်းသံဃာတွေအတွက်လဲ ပါတာပဲ၊ ဒါကြောင့် ဘုန်းကြီးက ဆရာတော်ဘုရားကြီးရဲ့ လမ်းစဉ် အတိုင်း လိုက်ပြီး သံဃာတော်များကို ပြုပြင်ဆုံးမ ထားပါတယ်၊ အခု ဒီသံဃာတော်တွေကို ဒီလို ငြိမ် သက်မှု ဖြစ်အောင် "ဥုံဖွ ရော့ ဖြစ်ဟ"ဆိုပြီး မန်း မှုတ်ထားတာ မဟုတ်ဘူး၊ ဒီလို လွယ်လွယ်နဲ့ ရထား တာမဟုတ်ဘူး၊ အသေအချာ အပင်ပန်းခံ အဆင်းရဲ ခံပြီး ပြုပြင် မွေးထုတ်ထားရတာ။

## ဒါကြောင့် စုန်းပြူးပါသေး

မနက်ပိုင်းမှာ နေ့တိုင်း ဩဝါဒပေးရတယ်၊ ပြောရ ဆိုရ သွန်သင်ရတယ်၊ အသိဉာဏ်တွေ တိုးလာအောင် စာပေတွေ ပို့ချပေးရတယ်၊ နေရာထိုင်ခင်း အစားအသောက် အဝတ်ပါ ပေး, ကျန်းမာရေးတွေပါ ဂရုစိုက်ပြီး မွေးထားရတာ။

တချို့ ဒကာ ဒကာမတွေက ပြောကြတယ် "တပည့်တော်တို့မှာဖြင့် သားသမီး လေးငါးယောက်တောင် နိုင်အောင် မပြောနိုင်ဘူး၊ ပြောမရဘူးတဲ့၊ အခုလို လေးငါးရာကိုတော့ မပြောနဲ့တော့"တဲ့။

ဘုန်းကြီးမှာလဲ ဒီသံဃာတွေ လေးငါးရာလုံး အကုန်လိုက်နာတာတော့ မဟုတ်ပါဘူး၊ နည်းနည်းပါးပါး မလိုက်နာတဲ့သူတွေ ရှိတယ်၊ သူတို့ နှလုံးသားထဲမှာ ဘုန်းကြီးဩဝါဒ မတည်တဲ့ သူတွေ ရှိတယ်၊ အိုးကွဲလိုပဲ, ထည့်သမျှ ယိုကုန်တာပဲ၊ ဒါလောက် ဘုန်းကြီးက အကုန်တာဝန်ယူ ပြောဆိုဆုံးမနေတဲ့ ကြားထဲကတောင် စုန်းပြူးတော့ ပါသေးတာပဲ။

## နွားကျောင်းရပေမယ့် နွားနို့မသောက်ရ

ဒါကြောင့် သင်ယူထားတဲ့ စာပေပရိယတ်တွေဟာ လက်တွေ့ကျင့်သုံးမှု ပဋိပတ်အဖြစ်သို့မရောက်သေးသမျှ စိတ်မချရသေးဘူး၊ ပရိယတ်က လမ်းညွှန်တဲ့အတိုင်း လက်တွေ့ ကိုယ်ကျင့် ပဋိပတ်အဖြစ်သို့ ရောက်ပါမှ; လက်တွေ့ကျင့်သုံးတဲ့ အဆင့်ကို ရောက်ပါမှ, လက်တွေ့လိုက်နာတဲ့အဆင့်ကို ရောက်ပါမှ တာဝန်ကျေမယ်၊ အရသာပေါ်မယ်၊ အဲလို မဟုတ်လို့ကတော့ "နွားနို့ မသောက်ရတဲ့ နွားကျောင်းသားလို နေမှာပဲ"။

ဘယ်လိုလဲ ဆိုတော့, နွားကျောင်းသား တစ်ယောက်ဟာ နေ့စဉ်နှင့်အမျှ စားကျက်မှာ သွားသွားပြီး နွားတွေကို ထိန်းရ ကျောင်းရ စောင့်ရှောက်ရတယ်၊ မိုးချုပ်ရင် နွားပိုင်ရှင်ထံ ပြန်ပြီး ခြံထဲသွင်းပေးရတယ်၊ နောက်တစ်နေ့ မနက်လင်းရင် နွားတွေကို လာထုတ်ယူ စားကျက်မှာ ကျောင်းရပြန်တယ်၊ နေ့စဉ်နှင့်အမျှ သူ့အလုပ်က ဒါပဲ၊ နွားနို့ကိုတော့ ပိုင်ရှင်ကသာ ညှစ်ယူ သောက်သုံးတယ်၊ သူ မသောက်ရဘူး။

အဲဒီ ဥပမာအတိုင်းပဲ, စာပေ ပိဋကတ်တွေ သင်ရုံ သင်ယူထားပြီး လက်တွေ့မကျင့်တဲ့သူတွေကတော့ (နွားတွေကို ကျောင်းရုံသာ ကျောင်းရတဲ့သူလိုပဲ) ပိဋကတ်တွေကို ထိန်းရုံသာ ထိန်းနေရတဲ့သူပဲ ဖြစ်တော့တယ်၊ နွားနို့ မသောက်ရတဲ့ သူလိုပဲ၊ သူလဲ အရသာ မပေါ်ဘူး။

## စာစခန်းနှင့်ဘာဝနာစခန်း

အရသာမပေါ်သေးသမျှ စာတွေဘယ်လောက်ပဲ တတ်တတ်, မိုးထိအောင်ပဲ ရောက်ရောက်, စိတ်မချရသေးဘူး, သူ့စိတ်ဓာတ်တွေလဲ မပျော့ပျောင်းသေးဘူး, မနူးညံ့သေးဘူး၊ အဲလို ပုဂ္ဂိုလ်တွေ ဘုန်းကြီးဆီမှာ တွေ့တွေ့နေရတယ်၊ ဒါ့ကြောင့် အခု ဒီကပြန်ရင် ဘုန်းကြီးတို့ ကျောင်းတိုက်မှာ စခန်းနှစ်ခုဖွင့်ထားမယ်၊ ဘာတွေလဲဆိုရင် "စာစခန်းရယ်, ဘာဝနာစခန်းရယ်"။

နေ့မှာ စာပေ ပရိယတ်သင်, ညမှာ ဘာဝနာစခန်းဝင်၊ အဲဒီ မှုကို ချတော့မယ်၊ လိုက်နာနိုင်တဲ့ သံဃာတွေ ဆက်လက်နေကြပေါ့, မလိုက်နာနိုင်တဲ့ သူတွေကတော့ ခေတ္တ အပြင်ထွက်ပြီး ပွဲကြည့်ပရိသတ်အနေနဲ့ ကြည့်နေကြပါဦးလို့ ပြောထားရမယ်။

ပရိယတ်ကို လုံးဝဖယ်ထားပြီး, ပဋိပတ်ဆိုတဲ့ ဘာဝနာကိုချည်း လုပ်နေရင်လဲ သာသနာဟာ ကြာရှည် မခံဘူး၊ အခု သီဟိုဠ်ကို လက်ညှိုးထိုးပြနိုင်ပါတယ်၊ ရှေးတုန်းက သီဟိုဠ်ကျွန်းမှာ ရှိတဲ့ ဇရပ်, တန်ဆောင်း, ဂူကျောင်း, ပြာသာဒ် အရပ်ရပ်ကို လိုက်ပြီး မေးကြည့်ရင်... သောတာပန် သကဒါဂါမ်

အနာဂါမ်, ရဟန္တာ မဖြစ်ဖူးတဲ့ ဂူ ကျောင်း ပြာသာဒ် ဟူ၍ မရှိဘူးတဲ့၊ တစ်မျိုးမျိုးတော့ ဖြစ်ဖူးတာချည်း ပဲတဲ့၊ အဲသလောက် ပဋိပတ်ထွန်းကားခဲ့တာ။

ဒါပေမယ့် ပရိယတ်က မပါခဲ့တော့ ဒီကနေ့ သီဟိုဠ် ဘယ်လိုဖြစ်နေသလဲ၊ ကြည့်ကြပါ၊ ခန့်မှန်း နိုင်ပါတယ်။

ဒါ့ကြောင့် ပရိယတ်ကိုလဲ လက်လွှတ်လို့ မဖြစ် သေးဘူး၊ နှစ်မျိုးလုံး တွဲကိုင်ရမှာပဲ။

## တရားနိဂုံး အဆုံးသတ်ခြင်း

အဲ-အခု ဆွေတွေ မျိုးတွေ ဖြစ်ကြတဲ့ ဒါယကာ ဒါယိကာမတွေလဲ ဒီအတိုင်းပဲ ကျင့်သုံးကြပါ၊ လက်တွေ့ ကိုယ်ကျင့်အထိ ဖြစ်ပါစေ၊ စာတွေ ပေ တွေကို ကြည့်ရုံ, ဖတ်ရုံနဲ့ လမ်းဆုံးမနေကြပါစေနဲ့၊ ငါးပါးသီလကို သိနေရုံ ဆိုတတ်နေရုံမျှဖြင့် မပြီးပါ စေနဲ့၊ သိက္ခာပုဒ်က အဆိုအတိုင်း အပြည့်အဝ ကျင့်သုံးသည်အထိ ရောက်ကြပါစေ။

ဘုရား တရား သံဃာ ရတနာသုံးပါးအကြောင်း ကိုလဲ ထိထိမိမိ လေ့လာပြီး လက်တွေ့ကျင့်သုံးပါ၊ ဘုရားရှိခိုး ဆိုတတ်ရုံမျှဖြင့် ကျေနပ်မနေကြပါနဲ့၊ သက်တော်ထင်ရှား ဘုရားကိုယ်တော်မြတ်တိုင် အောင် အာရုံယူတတ်ကြပါစေ။

ဤသို့ တိုက်တွန်းတော်မူပြီးလျှင် "ပစ္ဆိမံ ဖလ ဒါနေန" စသော ဂါထာကို ရွတ်၍ ဘုရားဂုဏ်တော် များအကြောင်းကို အကျယ်တဝင့် ဟောပြတော်မူ သည်၊ လူပြိန်းများ နားလည်လောက်အောင်, သဒ္ဓါ တရားတွေ ဖြစ်လာလောက်အောင် ရှင်းပြပါသည်၊ ထို့နောက် ပရိသတ်အားလုံး ဗုဒ္ဓါနုဿတိကမ္မဋ္ဌာန်း ကို စီးဖြန်းသောအားဖြင့် ၁၀ မိနစ်ခန့်မျှ ငြိမ်သက်စွာ အာရုံယူ ပွားများနေကြရပါသည်၊ နောက်ဆုံးတွင် ဤသို့ တိုက်တွန်းတော်မူပြန်၏၊ "ကဲ ဒါယကာ ဒါယိ ကာမအားလုံးတို့, ငါးပါးသီလကို လုံခြုံအောင် ထိန်း ကြပါ၊ ငါးပါးသီလလုံခြုံရင်ပဲ လူကောင်း သူကောင်း တွေ ဖြစ်ကြပါပြီ၊ စိတ်ကောင်း နှလုံးကောင်း ထားကြ ပါ၊ မေတ္တာပွားကြပါ၊ စိတ်ယုတ်မာတွေပေါ်လာရင် ဖယ်ရှားပစ်ပါ၊ သူ့ဘက် ကိုယ့်ဘက် မျှမျှတတ ရှိကြ ပါ၊ နေရာတကာ စည်းကမ်းစနစ် ရှိကြပါစေ၊ ဒါနကို စနစ်တကျ ပြုကြပါ၊ ဒါနကို ပြုတော့ပြု, ဒါပေမယ့် သူချည်းနဲ့လဲ မလုံလောက် သေးဘူးဆိုတာ သတိ ရှိကြပါ၊ သီလလဲ ပါဦးမှ ဖြစ်တယ်။"

## မေတ္တာများ လွှင်းထ၍ ကျန်ရစ်

"သီလရှိမှ ဘဝကောင်းကို ရဖို့ သေချာတယ်၊ ဘဝကောင်းကို ရမှလဲ ကိုယ်ဖြစ်ချင်တဲ့အခြေအနေ, ကိုယ်ဖြစ်ချင်တဲ့ပါရမီတွေ ဖြည့်လို့ရတယ်၊ ဒါ့ကြောင့် သီလကို အခြေခံပြီး စိတ်ထားဖြူစင်အောင် နေကြ ပါ၊ ဒီလို သိတတ်တဲ့ လူ့ဘဝကိုရတုန်း ပါရမီတွေ ဖြည့်လိုက်ကြစမ်းပါ၊ အခွင့်သာခိုက်မှာ ကျေကျေ နပ်နပ်ကြီး ကြိုးစားလိုက်ကြစမ်းပါ။

တစ်ဦးနဲ့တစ်ဦး, တစ်အိမ်နဲ့တစ်အိမ်, တစ်ရွာနဲ့ တစ်ရွာ, တစ်နယ်နဲ့တစ်နယ် ကူညီစရာရှိရင် ဝိုင်း ဝန်း ကူညီကြပါ၊ ချစ်ချစ်ခင်ခင် နေကြပါ၊ တစ်ဦး အပေါ် တစ်ဦး မေတ္တာထားကြပါလို့ ဘုန်းကြီးက မှာကြားလိုပါတယ်"ဟု အမိန့်ရှိကာ ည ၁၀ နာရီခွဲ အချိန်အခါတွင်တရားပွဲကို ရုပ်သိမ်းလိုက်လေသည်။

တရားပွဲကြီး ပြီးဆုံးသည်နှင့် ပရိသတ်ကြီး၏ သာဓုသံလွှင်းလုံးကြီးသည်လည်း ကွင်းကြီးတစ်ခုလုံး ကို ပြည့်လျှံမောက်ဖြိုးကာ မိုးနဘံအထိ ဟိန်း၍ တက်သွားတော့သတည်း။

ဝန်းကျင်ပတ်ချာ ရပ်တကာ၌ သံဃာတော်များ ၏ မေတ္တသုတ်, ရတနသုတ်, ဓမ္မစကြာ, အနတ္တ လက္ခဏသုတ်, မဟာသမယသုတ်တို့ကလည်း လွှင်း ထ ကျန်ရစ်သလို ဆရာတော်၏ တရားပွဲ, ဆရာ တော်၏ နှုတ်ဖျားမှ ချိုမြသာယာသော အေးမြငြိမ်း ချမ်းသော မေတ္တာစကားလုံး, ကရုဏာစကားလုံး, မုဒိတာစကားလုံးတို့သည်လည်း ပန်းကုံးသီသကဲ့သို့ အစီအရီနှင့် ပွဲတင်ထပ်ကာ ယနေ့တိုင်အောင် ထင်၍ ဟပ်၍ ကျန်ရစ်ကြလေသတည်း။

# ဗဟုသုတလေ့လာဖို့ အခွင့်ပေးခြင်း

## တပဲ့သာ ရေချိုတွင်း

သရိုင်ရွာသို့ သံယာတော်များ ရောက်လာချိန်မှစ၍ မနှစ်ကလိုပင် ဟိုရွာသည့်ရွာက လာပြီး ဆွမ်းကပ်ကြ၏၊ ဤနှစ်တွင် "ဆင်နင်း"ဆိုသော ရွာကပါ တကူးတက လာ၍ ဆွမ်းကပ်ကြသည်၊ သူတို့မှာ နံနက်ဆွမ်း နေ့ဆွမ်း ကပ်လှူနေကြရသည်ကိုပင် ပျော်ရွှင်နေကြ၏၊ ဆွမ်းကပ်ဖို့ အလှည့်မရသော ရွာတို့ကမူ နေ့လည်ပိုင်း ညနေပိုင်း၌ သံယာတော်များကို ပင့်၍ ဆွမ်းဆန်စိမ်း လောင်းလှူကြသည်။

အားလပ်ခွင့်ရသော သံယာများအား အနီးအပါး ဝန်းကျင်တို့၌ ထူးဆန်းသည်တို့ကို ဗဟုသုတအဖြစ် ဆရာတော်က လေ့လာခွင့်ပေးတော်မူသည်။

ထို့ကြောင့် နောက်တစ်နေ့တွင် သရိုင်ရွာ၏ အရှေ့မြောက်ဘက် ခပ်လှမ်းလှမ်း၌ ရှိသော "တပဲ့သာ" ရေတွင်းကို သွားရောက်လေ့လာခွင့် ရခဲ့ကြသည်၊ ထိုရေတွင်း၏ နောက်ခံဇာတ်ကြောင်းကလေးကလည်း ခပ်ဆန်းဆန်း ဖြစ်နေ၍ ပိုပြီး စိတ်ဝင်စားကြရသည်၊ တစ်ချိန်တုန်းက သိကြားမင်းနှင့် တပည့်ဖြစ်သူ ဘီလူးမင်းတို့ ဤသရိုင်ရွာ ဤနေရာတွင် ရေတွင်းတူး ပြိုင်ကြသည် ဆို၏၊ "သပ်သပ်ယပ်ယပ်နှင့် ဦးစွာပြီးသူက နိုင်စတမ်း"ဟု ကတိထားကြသတတ်၊ ဤသို့ဖြင့် တူးကြရာ တပည့်ဖြစ်သူက အနိုင်ရ အသာရသဖြင့် "တပည့်သာတွင်း=တပဲ့သာတွင်း"ဟူ၍ ခေါ်နေကြသော ဟူ၏။

တစ်နည်းကလည်း ဤတွင်းမှ ထွက်သောရေနှင့် အခြားတွင်းတို့မှ ထွက်သော ရေကို ဆတူချင်ခွက်တူဖြင့် ယူ၍ ချိန်တွယ်ကြည့်လျှင် ဤရေတွင်းမှ ရေက အမြဲတမ်း အလေးချိန်အားဖြင့် တစ်ပဲသားမျှ သာ၍ သာ၍ လေးနေသည် ဆို၏၊ ထို့ကြောင့် "တစ်ပဲသာတွင်း"ဟုလည်း ခေါ်ကြသေးသတတ်။

အစဉ်အလာကပင် ဤရေတွင်းကို တန်ဖိုးထားကြ လေးစားခဲ့ကြ၏၊ ယိုယွင်းလာသမျှ အဆက်ဆက် ပြုပြင်လာခဲ့ကြသည်၊ ဤရေတွင်းကလေးမှ ရေတို့ကို ခပ်ယူလျှင် ကုန်ခန်းသွားသည်ဟူ၍ မရှိချေ။

ထို့ကြောင့်ပင် ဤရေတွင်းကလေးကို "နတ်ရေတွင်း"ဟူ၍လည်း ခေါ်ကြသေးသတတ်။

## လူထက်တွေ ထွက်တဲ့မြေ

ဤ"တပဲ့သာရေတွင်း"နှင့် ပတ်သက်ပြီး လေ့လာရေး သံယာတစ်ပါးက ဘဝင်ကျဟန် မတူပေ၊ "ဘယ့်နှယ်, သိကြားနဲ့ ဘီလူး ယှဉ်ပြိုင်၍ တူးတာ ဘီလူးက နိုင်ရတယ်လို့"ဟူ၍ စလိုက်ရာ အခြားတစ်ပါးက "အို-ဒါ သရိုင်ဘီလူးပဲ, နိုင်ရမှာပေါ့"တဲ့၊ "ဒီ သရိုင်နယ်မြေက ထက်မြက်တဲ့သူတွေ ထွက်တဲ့မြေ မဟုတ်လား"ဟု တုံ့ပြန်ပြောသဖြင့် သဘောကျ၍ အများက ပြုံးကြရတော့သည်။

ထိုစကားနှင့် ဆက်စပ်ကာ မိမိတို့မှာ တစ်ချိန်က ဆရာတော် စာချရာတွင်လည်းကောင်း, ဩဝါဒပေးရာတွင်လည်းကောင်း ပြောလေ့ ဟောလေ့ မိန့်ဆိုလေ့ရှိသော စကားလုံးတို့ကို သွား၍ သတိရမိကြတော့၏။

"တို့ သရိုင်နယ်မြေက လူထက်တွေ ထွက်တယ်ကွ, ဉာဏ်ကောင်းတဲ့သူတွေ, သတ္တိရှိတဲ့သူတွေ ထွက်တယ်၊ ဘိုးဘေး အစဉ်အဆက်က စပြီး ဘုရင့်နန်းတွင်းထဲမှာတောင် နာမည်ရ ထက်မြက်တဲ့ အမှုထမ်းကောင်းတွေ တို့နယ်မြေက ရှိတယ်၊ အဲလို တော်ကြတာ။ ဒါပေမယ့် စေတနာ သဒ္ဓါတရားကတော့ ခေါင်းပါးပါ့"တဲ့။

## ခန့်မှန်းနိုင်တဲ့ လက္ခဏာတွေ

ဤသို့ပင် ဆရာတော်က အမိန့်ရှိသည်၊ စေတနာ သဒ္ဓါတရား ခေါင်းပါးတာကို ကြည့်ပြီး "ဒါ သရိုင်သားပဲ"လို့တောင် ခန့်မှန်းဆုံးဖြတ်နိုင်သတဲ့၊ ထိုပြင်လည်း ခန့်မှန်းနိုင်တဲ့ လက္ခဏာတွေ ရှိပြန်သေးသတဲ့၊ ဘယ်လိုလဲ ဆိုတော့...

"သရိုင်သားမှန်ရင် နဖူးသော်လဲ မောက်ရမယ်၊ နောက်စေ့သော်လဲ ထွက်ရမယ်၊ နောက်ဖဲ့ တွင်းသော်လဲ နက်ရမယ်၊ ရှေ့သို့ ငေါငေါနဲ့ သွားသော်လဲ ခေါရမယ်"တဲ့၊ အဲဒီ ဂုဏ်အင်္ဂါရပ်တွေထဲက တစ်ခုခု ပါရင် ဆုံးဖြတ်တော့တဲ့ "ဒါ-သရိုင်သားပဲ"လို့။

ဤသည်ကား ဆရာတော်တို့ ငယ်စဉ်က စကားနိုင် လု၍ ပြောကြခြင်းသာ ဖြစ်ပါလိမ့်မည်။

ယခုလို သရိုင်နယ်မြေသို့ ကိုယ်တိုင် လက်တွေ့ ကွင်းဆင်း၍ လေ့လာခွင့်ရသောအခါ ကျောင်းကန် ဘုရားတွေနဲ့၊ စေတီ ပုထိုးတွေနဲ့၊ ပြာသာဒ် တန်ဆောင်းတွေနဲ့၊ ဘုရားဒါယကာ ဘုရားအမ၊ ကျောင်းဒါယကာ ကျောင်းအမတွေနဲ့ အပြည့်အစုံ တွေ့ရသည်ကို ထောက်လျှင် ပြောသလောက် သဒ္ဓါတရား ခေါင်းပါးမည် မဟုတ်ကြသေးပါ၊ လုပ်ငန်းများက သက်သေခံနေကြပါသည်။

ထို့ပြင်လည်း အများက နှိမ်၍ ပြောကြသလို နဖူးမောက်၊ နောက်စေ့ထွက်၊ နောက်ဖဲ့တွင်းနက်ပြီး၊ သွားငေါ၍ ထွက်တတ်သည်ဆိုသည့်ကိုလည်း သတိထား ကြည့်မိသလောက် မဆိုစလောက်သေးပါ၊ လူချော စာရင်းဝင်တွေပင် များကြပါသည်။

ဤသို့လျှင် အတွေးကိုယ်စီ တမြို့မြို့တွေးကြရင်း လေ့လာရေး ကိုယ်တော်တို့သည် ပင်းကျောင်းကြီးဆီသို့ ပြန်လည် တုံ့ခေါက်လာခဲ့ကြတော့၏။

## ဟန်လင်းမြို့က ရေပူတွင်းများ

မြန်မာများ၏ ဘိုးဘေးဖြစ်သော ရှေးက ပျူလူမျိုးတို့၏ နိုင်ငံတစ်ခုမှာ ဟန်လင်းမြို့ဟောင်း ဖြစ်လေသည်၊ ထိုဟန်လင်းမြို့တော်ဟောင်း တစ်နေရာတွင် "ရေပူတွင်းများ" ရှိကြ၏၊ ထူးဆန်းသော ယင်းတွင်းများကို လေ့လာစေလိုသည်၊ ရေပူများကိုလည်း ချိုးကြည့်စေချင်၏။

ထို့ကြောင့် တတိယနေ့ တန်ဆောင်မုန်းလပြည့်ကျော် ၃ ရက် (၁-၁၂-၇၄)နေ့တွင် ရန်ကုန်မှ လိုက်ပါလာကြသောဒါယကာအချို့နှင့်အတူ သံဃာတော်များအား ဆရာတော်က သွားခွင့်ပေးလေသည်။

ခရီးစဉ်မှာကား သရိုင်မှ ညောင်ပင်တွင်းရွာသို့ ခြေလျင်သွားကြရ၏၊ ယင်းမှ တစ်ဖန် လှေဖြင့် ဆားတောင်ကြီးရွာသို့ သွားကြရပြန်သည်၊ ထိုမှတစ်ဆင့် ဟန်လင်းမြို့ဟောင်းသို့ရောက်ကြရ၏၊ အတော်ကြာအောင် သွားကြရသဖြင့် နံနက် ၁၀ နာရီအချိန်ကျမှပင် ဟန်လင်းသို့ ရောက်ကြရတော့သည်၊ စောစောက စီစဉ်ထားသည့်အကိုင်း သံဃာတော်များကို တစ်[၁] ဝက်စီ ခွဲယူ၍ ဆရာတော်၏ ညီတစ်ဝမ်းကွဲနှင့် ရွာ[၁] လူကြီး ဦးအိုး တို့က ဆွမ်းကပ်ကြ၏။

ဆွမ်းဘုဉ်းပေးအပြီးတွင် ဟန်လင်းမြို့ဟောင်း လူနေရပ်ကွက်များ၏ အရှေ့နားတွင်ရှိသော "ရေပူတွင်းများ" ဆီသို့ လေ့လာရန် သွားကြရသည်၊ ထူးဆန်းသော ရေပူတွင်းများဆီသို့ ရောက်ကြရပါပြီ၊ ရေနွေးကျိုက်ကျိုက်ဆူလောက် မဟုတ်သော်လည်း အတော်ကလေး ပူသည်ဟုကား ဆိုရပါမည်။

အဘယ့်ကြောင့်ဆိုသော် ဤရေတွင်းသို့ ဘဲဥ ကြက်ဥများကို ထည့်ကြည့်လျှင် မိနစ်အနည်းငယ်အတွင်း ကျက်သွားသည်ဟု ဆိုသောကြောင့်ပေတည်း။

ထို့ပြင် ဤရေပူစမ်း၏ အနီးတွင် မပူမအေး ခပ်နွေးနွေး ရေတွင်းကလေး ငါးတွင်းကိုလည်း တွေ့ရသေး၏၊ နှစ်ပေပတ်လည်စီမျှ ကျယ်ဝန်းကြမည်ဟု ထင်ရသည်၊ တစ်တွင်းနှင့်တစ်တွင်းလည်း နှစ်ပေခန့်မျှသာ ကွာဝေးကြမည် ဖြစ်၏။

သို့သော် တစ်တွင်းနှင့် တစ်တွင်း မတူကြချေ၊ ဒူလာ ညောင်ညာ ဝေဒနာရှင်များ ထိုရေကို ချိုးလျှင်[၂] ရောဂါဝေဒနာ ပျောက်ကင်းသည်ဟု အဆိုရှိသည်။

## ရေ ဘာ့ကြောင့် ပူနေရသနည်း

ရေတွင်း ရေကန်ဟူသမျှ ယေဘုယျအားဖြင့် "အအေး"ချည်းသာတည်း၊ အဘယ့်ကြောင့် ဤရေတွင်းများ ပူနေကြရသနည်း။

သိပ္ပံပညာရှင်တို့က "ကန့်ဓာတ်များသောကြောင့် ပူသည်"ဟု အဖြေပေးကြသည်၊ ဤနေရာတွင် စာလာပေလာ အဆိုတစ်ရပ်ကို ကပ်၍ စဉ်းစားနိုင်ဖို့ရာ တင်ပြလိုပါသေး၏၊ ဝိနည်းပါဠိတော် စတုတ္ထပါရာဇိကအခန်း၌ ဤသို့ တွေ့ရပါသည်။

* ရာဇဂြိုဟ်မြို့၏ အနီးက ဖြတ်သန်းစီးဆင်းသွားနေသော တပေါဒါမြစ်သည် ကျိုက်ကျိုက်ဆူလျက် စီးဆင်းနေ၏။

ထိုမြစ်၏ မြစ်ဖျားခံရာ ဝေဘာရတောင်အောက်က နဂါးတို့နေရာ ရေအိုင်သာကြီးကား ကြည်လင်၏၊ အေးမြ၏၊ ချိုမြိန်၏၊ ဖြူဖွေးသော ရေတို့ဖြင့် ပြည့်လျှံနေ၏၊ ဆိပ်ကမ်းကောင်း၏၊ နှစ်လိုဖွယ်ရှိ၏၊ ငါးလိပ်များ ပေါ၏၊ လှည်းဘီးပမာဏ ပဒုမ္မာကြာတို့သည်ပင် ပွင့်လျက် ရှိကြကုန်၏။

သို့သော်လည်း ထိုအိုင်ကြီးမှ အစပြု၍ စီးဆင်းထွက်ပေါ်လာရသော တပေါဒါမြစ်သည်ကား လမ်းတွင် လောဟကုမ္ဘီငရဲကြီး နှစ်ခုတို့၏ကြားမှ ဖြတ်သန်း စီးလာခဲ့ရသောကြောင့် နောက်မှ ပူလောင်သော ရေတွေ ဖြစ်ကာ ကျိုက်ကျိုက်ဆူလျက် စီးဆင်းနေရသည်။

ဤသို့ ဟောတော်မူထားသော အချက်ရှိ၏၊ ငရဲတို့၏ အပူအားသည် မည်မျှလောက် ကြီးမားသည်ကို အနီးမှ ဖြတ်သန်းသွားသော ရေတွေပင် ကျိုက်ကျိုက်ဆူရသဖြင့် ခန့်မှန်း၍ သိနိုင်ရတော့၏။

ဤ ရေတွင်းနှင့် ပတ်သက်၍လည်း ဤသို့ပင် ဆက်စပ်နေလေသလောဟူ၍လည်းကောင်း၊ ဆက်စပ်ရိုးမှန်လျှင် ငရဲ၏ အပူအား မည်မျှ ကြီးမားကြောင်းကို သိစေလို၍လည်းကောင်း ဆရာတော်က သံဃာတော်များကို လေ့လာခွင့်ပေးခြင်း ဖြစ်သည်။

## ဝိနည်းကျင့်ဝတ် တစ်ပါးတတ်က

ရေပူတွင်းများကို ခပ်သုတ်သုတ်လေ့လာပြီး အမြန်ပြန်ခဲ့ကြရသည်၊ အဘယ့်ကြောင့်ဆိုသော် ဟန်လင်းတွင် ဆွမ်းမကပ်ရ၊ သူတို့က ဆွမ်းဆန်စိမ်းလောင်းလှူပါရစေဟု တောင်းပန်ကြသောကြောင့် သူတို့၏ ဆန္ဒကိုလည်း ဖြည့်စွမ်းနိုင်ရန်အတွက် ဖြစ်သည်၊ ထို့ပြင် ယနေ့ညနေပင်လျှင် အပြန်တွင် ဆားတောင်ကြီးရွာကို ဝင်ဖို့ လျှောက်လိုက်၍ ဝင်ဖို့ကိစ္စနှင့် ညောင်ပင်တွင်းရွာ စမွန်းရွာတို့၌ သံဃာများ ခွဲဝေပြီး ပရိတ်ချီးမြှင့်ပေးရန်ကိစ္စများ ရှိသည့်အတွက်ကြောင့်လည်း အချိန်လု၍ ရေပူတွင်းများမှ ပြန်ခဲ့ကြရသည်၊ ပြန်ရောက်၍ နေ့ ၁ နာရီခန့်တွင် သံဃာတော်များက ရှေ့က ကြွ၍ ဒါယကာများက သံဃာစေ့ တောင်းကိုယ်စီဖြင့် နောက်မှ လိုက်ကာ ဆွမ်းဆန်စိမ်း အလှူခံကြရသည်၊ ပြီးလျှင် သံဃာတော်များက ပရိတ်တရားများ ချီးမြှင့်ခဲ့ကြ၏၊ ဟန်လင်းကြီးက ဒါယကာ ဒါယိကာမတို့က ညအိပ်၍ နောက်တစ်ရက်နေပါရန် တောင်းပန်ကြသော်လည်း ဆရာတော်ထံမှ အခွင့်မပန်ခဲ့ရသဖြင့် အားလုံး ပြန်ခဲ့ကြတော့သည်၊ အပြန်ညနေပိုင်းတွင်လည်း အစီအစဉ်အတိုင်း အားလုံး တာဝန်ကျေအောင် ဆောင်ရွက်လိုက်ကြသဖြင့် ဒါယကာ ဒါယိကာမတို့က အားရဝမ်းမြောက်နေကြတော့သည်။

ဘုရားရှင်၏ သာသနာတော်၊ ဘုရားရှင်၏ ဝိနည်းတော်များကား လက်တွေ့ကြုံရလေ အံ့ဩဖွယ်ကောင်းလေတွေ့ကြရတော့၏၊ ယခုလို ဒါယကာ ဒါယိကာမတို့က သဒ္ဓါဗလဝနှင့် လှူကြ တန်းကြ လေးစားကြ ဦးညွှတ်နိုင်ကြသည်မှာ အကယ်စင်စစ်ကား မိမိတို့အစွမ်းကြောင့် မဟုတ်ပါ၊ မြတ်စွာဘုရား၏ ဝိနည်းသိက္ခာအစွမ်းကြောင့်သာ ဖြစ်ပါသည်။

ထို့ကြောင့်ပင်လျှင် ရှေးပညာရှင်တို့က "ဝိနည်းကျင့်ဝတ်၊ တစ်ပါးတတ်က၊ လူနတ်ဦးခိုက်၊ ပူဇော်ထိုက်၏"လို့ ဆိုခဲ့ကြပေတာပဲဟူ၍ အောက်မေ့ရင်း ဘုရားရှင်ကိုယ်တော်မြတ်ကြီးကို လက်အုပ်ချီမိ၊ ဦးညွှတ်မိကြပါတော့၏။

---

* ယတောယံ ဘိက္ခဝေ၊ပေ၊တပေါဒါ ဒွိန္နံ မဟာနိရယာနံ အန္တရိကာယ အာဂစ္ဆတိ၊ တေနာယံ တပေါဒါ ကုထိတာ သန္ဒတိ။ (ဝိ၊ ၁၊ ပါ – ၁၄၉)

# မေတ္တာခြေရာများ လေးလွှာ ထပ်ခဲ့ကြပြီ

## လေးကျွန်းမြေစေတီကလေး

မွေးရပ်ဌာနေ သရိုင်မြေသို့ ဒုတိယအကြိမ် ကြွချီခဲ့သော ခရီးစဉ်ကို ၁၃၃၆ ခု တန်ဆောင်မုန်းလပြည့်ကျော် ၄ ရက် (၂-၁၂-၇၄)နေ့တွင် အပြီးသတ်၍ နေရင်းသို့ ပြန်လည်တုံ့ခေါက်ကြတော့မည် ဖြစ်၏၊ သို့ဖြစ်၍ ယနေ့ ထပ်မံလေ့လာစရာ ကျန်သေးသော "လေးကျွန်းမြေစေတီကလေး"သို့ သွားရောက်လေ့လာကြသည်။

ဤစေတီကလေးနှင့်ပတ်သက်၍ ကွယ်ဝှက်တိမ်မြုပ်နေသော နောက်ခံ သမိုင်းကြောင်းများ ရှိ၏၊ စိတ်ဝင်စားဖွယ် ကောင်းလှသည်၊ ဈာန်ရသော သာမဏေအရှင်မြတ်ကလေးက ကျွန်းကြီး ၄ ကျွန်းမှ မြေအနည်းငယ်စီကို ယူခဲ့၍ ဌာပနာပြီး တည်ထားအပ်သောကြောင့် "လေးကျွန်းမြေစေတီ"ဟု ခေါ်တွင်သတတ်၊ ယခုအခါတွင်ကား "မောင်ရင်ဈာန်ရစေတီ"ဟု ခေါ်သည်က များကြ၏။

သရိုင်ရွာ၏ အရှေ့မြောက်ဘက် "ရွှေညောင်ဘုရားဝင်း"အတွင်း၌ ယင်းမောင်ရင်ဈာန်ပျံတက်ရာနှင့် ဈာန်ပျံရာမှ သက်ရာအဖြစ် အထိမ်းအမှတ်အုတ်ပလ္လင်တစ်ခု ပြုလုပ် ပူဇော်ထားကြသည်၊ ယနေ့တိုင် တည်ရှိ၏၊ ယင်းနေရာသို့လည်း သွား၍ လေ့လာကြသည်၊ မောင်ရင်ဈာန်ရနှင့် ပတ်သက်၍ ပုဂံရာဇဝင်တွင်လည်းကောင်း, ဖိုဝန်းတောင်သမိုင်းမှာလည်းကောင်း အခိုင်အမာ အတိအကျ ပါရှိသည်။

## ပြန်ခါနီး ဆရာတော့်ဩဝါဒ

ဤသို့ ထူးဆန်း အံ့ဖွယ်ကလေးများကို လေ့လာကြပြီးလျှင် ပြန်တော့မည် ဖြစ်၍ ဆရာတော်က သရိုင်ရွာ ဒါယကာ ဒါယိကာမတို့အား နှုတ်ဆက်မှာကြား ဩဝါဒစကား မိန့်မြွက်တော်မူ၏၊ ဆရာတော်က နိဒါန်းချီလေပြီ၊ "အခု ဘုန်းကြီးတို့ ပြန်တော့မယ်"၊ ဤစကားလုံးသည် ဒါယကာ ဒါယိကာမတို့၏ ရင်ကို နာကျင်စွာ "သိမ့်ခနဲ" နင့်သွားစေဟန်တူ၏၊ မျက်နှာများ မကောင်းကြတော့၊ သို့သော် ဆရာတော်က ဆက်လက်၍ အမိန့်ရှိနေသည်။

"အခု ဘုန်းကြီးတို့ ပြန်တော့မယ်၊ ခု ဒီက ပြန်တော့မယ်ဆိုတော့ ဘုန်းကြီး ပင်ပန်းမှာ စိုးလို့တဲ့၊ ထမ်းစင်နဲ့ ဝိုင်းဝန်းထမ်းပြီး ပို့ပါရစေလို့ လျှောက်ကြတယ်၊ ဘုန်းကြီးက ပြောရတယ်၊ "ထမ်းစင်စီးရလောက်အောင် မအိုသေးပါဘူး"လို့၊ ဒီတော့ ဒကာတွေက၊ (ထရေလာဆိုလား ဘာဆိုလား) နောက်တွဲကြီးပါတဲ့ ထွန်စက်ကြီးကို မနက်က ယူလာတယ်။

တချို့ ဒကာတွေက "ဒါကြီးနဲ့ ဆရာတော်နဲ့ မလိုက်ပါဘူး"ဆိုပြီး ဝက်လက်သွား၍ လိုင်းပြေးကားကြီးကို ပိုင်ရှင် ကျေနပ်လောက်အောင် ငွေတွေပေးပြီး နောက်ထပ်ငှားလာကြပြန်တယ်၊ ငွေတွေကုန်လွန်းတယ်၊ သာသနာဟာ ငွေကုန်များလွန်းရင်တာရှည် မခံနိုင်ဘူး"။

## ဘယ်ပါရမီမှ အလွယ်နဲ့ မရခဲ့

ဤသို့ စသည်ဖြင့် အသုံးအစွဲနှင့် ပတ်သက်၍ ဆရာတော်က သတိပေးနေ၏၊ မကုန်သင့်တာ အပိုမကုန်စေချင်၊ သာသနာတော်မှာ ခမ်းခမ်းနားနားတွေ များလွန်းလျှင် ပျက်လွယ်တတ်ကြောင်း, သင့်တင့်မျှတရုံမျှသာ လိုအပ်ကြောင်း, ဘုရားလက်ထက်တော်တုန်းကလည်း ဤသို့သာလျှင် ကျင့်သုံးခဲ့ကြကြောင်းကို ဤသို့ သက်သေထူ၍ ပြတော်မူပြန်၏။ ဘုရားလက်ထက်တော်တုန်းက ဝိသာခါတို့, အနာထပိဏ်တို့ "ငွေကုဋေပေါင်းမည်မျှ"ဟူ၍ လှူကြသော်လည်း လက်ဝဲ လက်ယာ အရှင်သာရိပုတ္တရာ အရှင်မောဂ္ဂလ္လာန်တို့ဟာ ခမ်းခမ်းနားနား နေတော်မူကြတာ မဟုတ်ဘူး၊ ရိုးရိုးနဲ့ ခြိုးခြိုးခြံခြံပဲ နေတော်မူခဲ့ကြတာပဲ၊ တစ်ခါများ အရှင်သာရိပုတ္တရာကိုယ်တော်ကြီး လေနာရောဂါ ထတယ်၊ စားစရာ ဆေးဝါးဓာတ်စာတောင် ဟုတ္တိပတ္တိ အစ်အစ်စပ်စပ် မရရှာဘူး။

"ဘုန်းကြီးလဲ ခမ်းခမ်းနားနားလုပ်တာ မကြိုက်ဘူး၊ ငွေကုန်များမှာ သိပ်စိုးတယ်၊ ဗုဒ္ဓမြတ်စွာ အလောင်းအလျာ ဘဝတုန်းက ဘယ်ပါရမီမှ ချမ်းချမ်းသာသာ ဖြည့်ခဲ့ရတယ်လို့ မရှိပါဘူး၊ ဆင်းဆင်းရဲရဲ ပင်ပင်ပန်းပန်း ဖြည့်ခဲ့ရတာချည်းပဲ၊ ဒါပေမယ့် ခန္ဓာကိုယ်သာ ပင်ပန်းတာ၊ ဆင်းရဲတာ၊ စိတ်ကတော့ မဆင်းရဲဘူးတဲ့၊ ဒါကို ဘုန်းကြီးက ကြည်ညိုလွန်းလို့၊ ဒါကြောင့် သာသနာကို အခြေအနေမှန် ရောက်အောင် ပြုပြင်ရမှာပဲ၊ မပြင်လို့ ဖြစ်ကို မဖြစ်ပါဘူး၊ ဒီက ပြန်ရောက်ရင် အထူးကို ပြုပြင်ရမယ်။

တိဘက်ပြည်မှာ ဘုန်းကြီးတွေဟာ နေ့ဘက်မှာ စာသင်တယ်၊ ညဘက်မှာ တရားထိုင်တယ်၊ ဘုန်းကြီးကျောင်းက သံဃာတွေကိုလည်း အဲလို ဖြစ်အောင် ကြိုးစား ပြင်ရမှာပဲ၊ အစိုးရကပါ အကူအညီပေးရင် တစ်နိုင်ငံလုံးကို ပြုပြင်ရမယ်၊ ဒါယကာ ဒါယိကာမတွေက ဘုန်းကြီးလုပ်နေတဲ့ အလုပ်ကို သဘောပေါက်ကြစမ်းပါ။"

## သရိုင်ဘုန်းကြီး မဟုတ်တော့ဘူး

ဆရာတော်က မှာချင်သော စကားများ မကုန်သေး၍ ဆက်လက်မိန့်နေပြန်၏၊ "အခု ဘုန်းကြီးက သရိုင်ဘုန်းကြီး မဟုတ်တော့ဘူး" ဤစကားလုံးကို သုံးလိုက်ပြန်သောအခါ ဒါယကာ ဒါယိကာမတို့မှာ ကွက်ခနဲ မျက်နှာများ ပျက်ကုန်ကြရပြန်သည်။

ဒါယကာ ဒါယိကာမတို့ကား "တို့သရိုင်ဘုန်းကြီး အဖြစ်မှ လက်လွတ်ရလေပြီလား"ဟု ထင်ကြလေသလား မသိ၊ အမှန်မှာ "သရိုင်ဘုန်းကြီးလည်း ဟုတ်ပါသည်၊ အများဆိုင်(ပြည်သူပိုင်)ဘုန်းကြီးလည်း ဟုတ်ပါသည်" ဆိုသည့် အဓိပ္ပာယ်ထိအောင် မမိန့်ရသေး၍ ဖြစ်ပါ၏၊ ဆရာတော်က ဆက်လက် မိန့်နေပြန်သည်၊ "ဘုန်းကြီးက အခု သရိုင်ဘုန်းကြီး မဟုတ်တော့ဘူး, သရိုင်ဆွေမျိုးတွေကချည်း ပိုင်တဲ့ ဘုန်းကြီး မဟုတ်တော့ဘူး၊ တစ်နိုင်ငံလုံးက လေးစားတဲ့ ဘုန်းကြီး ဖြစ်နေပြီ၊ ဒီက ပြန်ရင် အကောင်အထည် ပေါ်အောင် ပြင်မှ ဖြစ်တော့မယ်"

"ဘုန်းကြီးမှာ အလုပ်တွေ သိပ်များတယ်၊ နောင်ကို ဒီ လာနိုင်မှာ မဟုတ်တော့ဘူး၊ အချင်းချင်း မေတ္တာနှင့် နေကြပါ၊ တစ်ဦးနှင့်တစ်ဦး ချစ်ချစ်ခင်ခင် နေကြပါ၊ ငါးပါးသီလကို လုံခြုံအောင် ထိန်းကြပါ၊ မေတ္တာနှင့် သစ္စာရှိရှိ နေထိုင်သွားကြပါ၊ ကဲ-ကဲ, သံဃာတော်တွေ သွားကြစို့, ကိုယ်တော်များကလဲ ခရီးလမ်းတစ်လျှောက် မေတ္တာပို့သွားကြပါ"

ဤသို့ မိန့်မြွက်မှာကြား၍ လှုပ်လှုပ်ရွရွဖြင့် သပိတ် သက်န်းတို့ကို ပြင်ဆင်ကာ ဝက်လက်သို့ ပြန်လှည့်ခဲ့ကြ၏။

## မေတ္တာခြေရာများ ထပ်ခဲ့ပြီ

ဝက်လက်မှာ ည ကျိန်းစက် စခန်းချကြ၏၊ မကျိန်းမီ (မနှစ်ကလိုပင်) သံဃာတော်များက ပရိတ်ရွတ်, ဆရာတော်က တရားဟောသည်၊ ဝက်လက်ရောက်သောအခါ "ကျည်းပင်ကန်"ဆိုသော ရွာက "နောက်တစ်နေ့ သံဃာများကို ဆွမ်းကပ်ပါရစေ" ဆိုပြီး သံဃာအပါး ၅၀ ပင့်သွားသေး၏၊ ကျန်သံဃာများနှင့် ဆရာတော်က ဝက်လက်မှာပင် နေရစ်ခဲ့ကြသည်။

နောက်တစ်နေ့ နံနက်နှင့် နေ့ဆွမ်းကိုလည်း ဝက်လက် ဒါယကာ ဒါယိကာမတို့က ကပ်လှူကြ၏၊ နေ့ဆွမ်းစားအပြီး သံဃာများ စုံသောအခါ နေ့ ၁၂ နာရီခွဲတွင် ပြန်ဖို့ပြင်ကြ၏၊ ခရီးထွက်ခါနီး ဝက်လက် ဒါယကာ ဒါယိကာမတို့က ဘိလပ်ရည်များ ကပ်ဖို့ ပြင်ကြသည်၊ ထိုအခါ ဆရာတော်က "ဒီအချိန်ဟာ ဆာတဲ့အချိန် မဟုတ်ဘူး, မကြာသေးမီကမှ ဆွမ်းစားပြီးတာ, မသောက်ကောင်းဘူး"ဟူ၍ အမိန့်ရှိသောအခါ "သောက်ကောင်းတဲ့အချိန်ကျမှ သောက်ပါဘုရား, ပုလင်းတွေကိုပါ တောင်မြို့သို့ ယူသွားပါဘုရား, နောက်မှ လိုက်၍ ယူပါ့မယ်"ဟု လျှောက်ကြ၍ ယူခဲ့ကြရ၏၊ လမ်းမှာလည်း ရွာသားကြီးက ဖျော်ရည်ဆီး၍ ကပ်ကြရာ ထို့အတူပင် ဆရာတော်က အမိန့်ရှိ၍ သံဃာတော်များ မသောက်ခဲ့ကြပေ။

ဤသို့ဖြင့် ဆက်လက် ခရီးထွက်ခဲ့ကြရာ ညနေ နေဝင်ဖိုးဖျ အချိန်ကျမှ တောင်မြို့သို့ ပြန်လည် ရောက်ကြတော့၏၊ ဒုတိယအကြိမ် ခရီးတစ်ခေါက် ချောမောစွာ ပြန်၍ ရောက်ခဲ့ကြပြန်သည်။

ဤသို့ ခရီးမထွက်မီကပင် လိုက်ပါကြမည့် သံဃာများကို မေတ္တာဖြင့် သွားကြရန်၊ မေတ္တာဖြင့် ပြန်ကြရန် ကြိုတင်၍ ဆရာတော်က အမိန့်ရှိထား၏၊ ထို့ကြောင့်လည်း ယမန်နှစ်ကရော ယခုနှစ်ပါ ဆရာတော် အမိန့်အတိုင်း တစ်သဝေမတိမ်း လိုက်နာခဲ့ကြပါသည်၊ ထို့ကြောင့်လည်း ရောက်လေရာ အရပ်တွင် ဒါယကာ ဒါယိကာမများက လေးစားကြ ရှိသေကြ ကြည်ညိုကြခြင်း ဖြစ်ပါလိမ့်မည်၊ ဤ ခရီးတို့ကို ပြန် လည် စဉ်းစားပါလျှင် ယမန်နှစ်က သွားခဲ့ ပြန်ခဲ့သော ခြေရာများပေါ်တွင်ပင် ယခု နှစ်လည်း ထပ်၍ ထပ်၍ နင်းခဲ့ကြပါပြီ၊ သို့ဖြစ်၍ ဟိုရွာ သည်ရွာ ဟိုနယ် သည်နယ် ရောက်ခဲ့လေ သမျှတွင် မေတ္တာခြေရာများ လေးလွှာ ဆင့်၍ ထင်ကာ ကျန်ရစ်ပါသတည်း။

## ပဋိပတ်ဖြင့် ထိန်းကွပ်ထားသော ပရိယတ်သာသနာဖြစ်မှသာ အတွင်းပိုင်း ငြိမ်းအေးမှု လိုအပ်

ဆရာတော်သည် လွန်ခဲ့သောနှစ် (တိုက်တာ ဆူပူမှု) ဖြစ်ကတည်းက တိကျသော ဆုံးဖြတ်ချက် တစ်ခု ချထားသည်၊ မိမိကိုယ်တိုင် နှစ်ပေါင်း ၃၀ ကျော်လောက် ပရိယတ်ဘက်ကို အလေးပေး၍ ကိုယ်တိုင် စာပေပို့ချခြင်း၊ ကိုယ်တိုင် ကျမ်းစာများ ရေးသားခြင်း၊ နေ့စဉ်နေ့တိုင်း ဩဝါဒပေးခြင်းတို့ဖြင့် ကြိုးစားကြည့်ပြီးပြီ၊ အပြင်ပန်း ရုပ်ဝတ္ထုပြုပြင်ရေး ၌သာ အထိုက်အလျောက် ကျေနပ်စရာ တွေ့ခဲ့ရ၏၊ အတွင်းပိုင်း နာမ်တရားများ ငြိမ်းအေးမှုအတွက်ကိုမူ အားရစရာ မပေါ်သေး။

မိမိတိုက်တာ တစ်ခုအတွက်သာမက နိုင်ငံ အတွင်းရှိ သာသနာတစ်ရပ်လုံးပါ ဤနည်း ဤပုံ ချည်းပင် ဖြစ်နေ၏၊ ဤသို့ ဖြစ်နေသည်မှာ "ယခု ခေတ် မိမိတို့ ရပ်တည်နေကြပုံ မှုမှန်မဟုတ်ကြ သေးလို့"ဟု ကောက်ချက်ချ၍ ရသည်၊ ဉာဏ်မီသမျှ လက်တွေ့ကျကျ စဉ်းစားရသော် "ပရိယတ် သက် သက်ကိုသာ ဦးစားပေးပြီး ပဋိပတ်အကျင့် မပါခဲ့ လျှင် ဤသို့ပင် ဖြစ်ကြရပေမည်"ဟု အဖြေရှာ၍ ရသည်။

ထို့ကြောင့် ဆရာတော်က ယခုနောက်ပိုင်း ဩဝါဒများတွင "ပရိယတ်ချည်း ကြိုးစားလာခဲ့ကြ တာ ကြာပြီ၊ စိတ်အနေတွေ ကျေနပ်ဖွယ် မဟုတ် ကြသေး၊ ဒါ့ကြောင့် သီလအကျင့် မပါတဲ့ ပရိယတ် စာသင်နည်းကိုတော့ ဒီကျောင်းတိုက်မှာ ဘယ်နည်း နှင့်မှ လက်မခံထိုက်တော့ဘူး၊ တစ်နိုင်ငံလုံး အတိုင်း အတာနှင့် ကြည့်ရင်လဲ ပုဂံခေတ်က စခဲ့တာပဲ၊ အခု နှစ်ပေါင်း တစ်ထောင်ကျော်နေပြီ၊ အတွင်းပိုင်း အနေနဲ့ ကျေနပ်ဖွယ် ဖြစ်ခဲ့ကြရဲ့လား။"

ဤသို့ မကြာ မကြာ အမိန့်ရှိ၍ လာသည်၊ ထို့ပြင်လည်း "ယခုအခါ ဤကျောင်းတိုက်အတွင်း တွင် ကျောင်းအသစ် အသစ်တွေ လာရောက် ဆောက်လုပ် လှူဒါန်းနေကြတယ်၊ အနယ်နယ် အရပ်ရပ်က လာပြီး တိုက်တွင်းရှိ သံဃာကုန် ဆွမ်း ကျွေးတွေကလဲ ရက်ဆက်လို ပေါ်များနေတယ်။

သရိုင်သွားတဲ့အခါမှာလဲ မနှစ်ကထက် ယခုနှစ် ပိုပြီး ဂရုစိုက်ကြတဲ့ ရွာတွေ များလာတာ တွေ့ရ တယ်။

ဒါယကာ ဒါယိကာမတွေဘက်က မလိုဘူး၊ တာဝန်ကျေကြတယ်၊ ဒီတော့ သံဃာတွေဘက်က ကိုယ်ကျင့်သီလ နည်းလို့ ဖြစ်ကို မဖြစ်ပါဘူး" ဟူ၍ တင်းကြပ်သော ဩဝါဒများ မိန့်မြွက်နေတော့ သည်။

## မူမမှန်ရင် ပြင်ကြရမှာပဲ

"ဒကာ ဒကာမတွေဘက်က တာဝန်ကျေသလောက် မိမိတို့ သံဃာတွေဘက်က ကိုယ်ကျင့်သီလ နည်းနေကြရင် (ဒုတိယဘဝမှာပင်) ဂတိကောင်းရဖို့ စိတ်မချရဘူး၊ တစ္ဆေ ပြိတ္တာတွေ ဖြစ်ကြရမယ်၊ ကဿပဘုရားရှင်ရဲ့ သာသနာနောက်ပိုင်းမှာ ရဟန်းတွေ သီလပျက်ကြလို့ ငရဲရောက်ကြရပုံတွေ့, အဲဒီနောက် ငရဲမှ တက်လာရပြန်တော့လည်း ဒီဘုရားသာသနာမှာ တစ္ဆေ ပြိတ္တာတွေ ဘဝနဲ့ မလွတ်နိုင်ကြသေးဘဲ ဆင်းရဲဒုက္ခခံနေရပုံတွေ ကျမ်းစာတွေထဲမှာ အများအပြားပဲ တွေ့ရတယ်။

ဒီခေတ်မှာ "ဆရာတော်"အခေါ်ခံပုဂ္ဂိုလ်တွေကိုပဲ သေတဲ့အခါ တစ္ဆေ ပြိတ္တာတွေ ဖြစ်နေရတဲ့ အကြောင်းကိုလဲ အကြားအမြင်ရပုဂ္ဂိုလ်တွေက ပြောပြောနေကြတာပဲ၊ တချို့ကျပြန်တော့လဲ လူ့ဘဝတော့ ပြန်ရပါရဲ့, အမိဆင်းရဲ အဖဆင်းရဲဝမ်းမှာ သွားဖြစ်ကြရပြန်ရောတဲ့၊ တော်တော့ကို ကြောက်ဖို့ကောင်းတယ်။

ဘာပဲဖြစ်ဖြစ် မိမိတို့ဘက်က သီလ သမာဓိ ပညာ နည်းရင်တော့ ကျောင်းဒကာ ကျောင်းအမ, ဆွမ်းဒကာ ဆွမ်းအမတို့ဘက်မှာ အကျိုးရ နည်းမှာ အမှန်ပဲ၊ ဒါကြောင့် ဦးပဉ္ဇင်းတို့ ကိုရင်တို့ စာတတ်ဖို့ထက် သီလစင်ကြယ်ဖို့, သမာဓိရဖို့က ပိုပြီး အရေးကြီးတယ် ဆိုတာကို သတိ ရှိကြပါ၊ စာမတတ်လို့ အပါယ် မကျပါဘူး၊ သီလ မလုံခြုံရင်တော့ အပါယ်ကျမှာ သေချာတာပဲ" စသည်ဖြင့် မကြာ မကြာ အမိန့်ရှိပါသည်။

## မြွေဖမ်းပုံနှင့်တူသောနည်း

ထို့ပြင် "ယခုခေတ် အများအားဖြင့် စာသင်ကြပုံတွေကလဲ စာတတ်ဖို့ထက် စာမေးပွဲအောင်ဖို့ကို ပဓာနထားပြီး သင်နေကြတယ်၊ စာမေးပွဲအောင်လိုတဲ့ ဆန္ဒကလဲ ဂုဏ်ရမှု, လာဘ်ရမှုကို ရည်ရွယ်သူကများနေကြတာပဲ၊ မြတ်စွာဘုရားကိုယ်တော်မြတ်က ဆိုရင် . . .

(က) ဂုဏ်လာဘ် ရလို၍လည်းကောင်း, (ခ) သူတစ်ပါးအပေါ် မောက်မာလို၍လည်းကောင်း စာသင် စာချမှု ပြုပါက မြွေဖမ်းပုံနှင့် တူသော စာသင် စာချနည်း"လို့ ဟောတော်မူထားတယ်။

အလမ္ပာယ်ပြုဖို့ မြွေဆိုးကို ဖမ်းရာ၌ အဖမ်းမတတ်၍ (ခါးကို သွား၍ ကိုင်လေရာ) မြွေက နောက်ကို ပြန်၍ လှည့်ပြီး အပေါက်ခံရတတ်၏၊ ထို့အတူ ဂုဏ်လာဘ်နှင့် မာန်မာနတို့ အရင်းခံဖြင့် သင်ယူထားသော ပရိယတ်တို့ကလည်း ထိုသင်သော ပုဂ္ဂိုလ်ကို (ရည်ရွယ်ရင်း မူမမှန်သဖြင့်) ပြန်၍ ပေါက်သကဲ့သို့ ဒုက္ခပေးတတ်တယ်။

ဂုဏ်လာဘ်စသည်ကို မတောင့်တဘဲ ဗုဒ္ဓမြတ်စွာ၏ တရားတော်များကို သိလိုသောဆန္ဒ, သိသောအခါ ကျင့်မည်ဟူသော ဆန္ဒဖြင့် သင်ကြားပို့ချခြင်းကိုသာ "သံသရာဝဋ်မှ လွတ်ဖို့ကို ရည်စူးသောနည်း" လို့ ဘုရားရှင်က ဟောတော်မူထားပါတယ်။

ဒါ့ကြောင့် အခု ကျင့်သုံးနေကြတဲ့ နည်းတွေဟာ ရှေးရှေးကာလက (အထက်တော်က) စခဲ့ကြတဲ့ နည်းတွေ ဖြစ်ပေမယ့် မူမမှန်ရင် ပြင်ကြရမှာပဲ"ဟူ၍ မိန့်တော်မူသည်။

## ဂန္ထဓုရနှင့်ဝိပဿနာဓုရ

မြန်မာမင်းများ လက်ထက်က စပြီး "ပထမပြန်" လို့ ခေါ်တဲ့ စာတော်ပြန်ပွဲများကို (ဂုဏ်တွေ လာဘ်တွေ ပေးပြီး) ချီးမြှောက်ခဲ့ကြတယ်၊ ဒါဟာ တခြားနိုင်ငံတွေကမင်းတွေထက် ထူးခြားချက်ပဲ၊ အခုခေတ် စာပြန်ပွဲအမျိုးမျိုး ဘွဲ့တံဆိပ် အမျိုးမျိုးဟာ မြန်မာမင်းများလက်ထက်က ဆင်းသက်လာတဲ့ အမွေဆက်တွေပဲ၊ ဒါ့ကြောင့် ဂုဏ်တွေ လာဘ်တွေ ဗန်းပြပြီး ကျင်းပနေကြတဲ့ စာပြန်ပွဲတွေဟာ အကောင်းနည်းပါးလှပါတယ်။

ငွေကုန် လူပန်းသလောက် အကျိုးရက နည်းပြီး အပြစ်တွေသာ များနေတာတွေ့ရတာပဲ၊ ဒီလိုဆိုတော့ "ဒါတွေဟာ သာသနာပြုစာပြန်ပွဲတွေ ဟုတ်နိုင်ပါ့မလား"လို့ စဉ်းစားဖို့ ကောင်းကြပြီ၊ စိစစ်ပြီး ပြုပြင်ကြဖို့ ကောင်းပြီ၊ ဒီကိစ္စ အစိုးရပါမှ ဖြစ်မှာပဲ၊ အစိုးရ၏ အကူအညီရမှ တစ်နိုင်ငံလုံးကို ပြုပြင်လို့ရမှာပဲ၊ အခုချိန်မှာ အစိုးရကလဲ သူ့မှာလုပ်ငန်းကိစ္စတွေ များနေတော့ ဒီဘက်ကို မလှည့်နိုင်သေးဘူး၊ ဒီအတွင်းမှာ ဘုန်းကြီးတို့ ကျောင်းတိုက်ကတော့

ကိုယ်စွမ်းနိုင်တဲ့ အင်အားနဲ့ (ကိုယ့်အတိုင်းအတာနဲ့ ကိုယ်) အခုအချိန်ကစပြီး ပြုပြင်ပြောင်းလဲရမှာပဲ၊ ဘယ်လို ပြောင်းလဲရမလဲဆိုရင် "နေ့ပိုင်းမှာ စာသင် စာချဆိုတဲ့ ဂန္ထဓုရတာဝန်ကို ထမ်းဆောင်ကြပြီး တော့ ညပိုင်းမှာ သမထ ဝိပဿနာ ဘာဝနာပွား များမှုဆိုတဲ့ ဝိပဿနာဓုရတာဝန်ကို ထမ်းဆောင်ကြ ဖို့ပဲ၊ ဂုဏ်တွေ လာဘ်တွေ ဗန်းပြမှုတွေ အများကြီး လျှော့ပစ်ရမယ်၊ ဒီလိုလုပ်လိုက်တဲ့အတွက် ပရိယတ် ဘက်မှာ စာမေးပွဲအောင်မှု စသည်တွေ နောက်ကျ ချင် ကျသွားမယ်၊ ကျပါစေ၊ အပြစ်မကြီးပါဘူး၊ ရဟန်း သာမဏေတွေ လုပ်နေပြီး သီလအကျင့် မလုံခြုံဘဲနဲ့, သမထ ဝိပဿနာလဲ မပွားဘဲနဲ့ သေကုန် ရမှာကသာ အပြစ်ကြီးတာပါ။

ဒီပြုပြင်ပြောင်းလဲမှုကြီးဟာ မသေးဘူး၊ ကြီးမား တဲ့ အထုအထည်ကြီးကို တွန်းလှန်ရမှာ ဖြစ်တယ်၊ အရှိန်အဟုန်ကြီးမားတဲ့ ရေဆန်ကို လှန်ရမှာ ဖြစ်တယ်။

ဧရာဝတီမြစ်ကြီးကို ကန်သင်း (ကဇင်း)ဆယ် သလိုလဲ ဖြစ်တယ်၊ ဘာပဲ ဖြစ်ဖြစ် ဘုရားအလိုတော် ကျ ရောက်အောင် ပြန်လည် ပြုပြင်တဲ့နေရာမှာ သတ္တိရှိကြရမှာပဲ၊ "မဖြစ်နိုင်ပါဘူး"လို့ စိတ်ကို လျှော့ ချပြီး အများ မိုးခါးရေသောက်သလို သောက်လာ ခဲ့ကြလို့ ယခုလို သာသနာရေး ဘာသာရေးတို့၌ ရေစုန် မျောခဲ့ကြရတယ် မဟုတ်လား"...

## မူလရည်ရွယ်ရင်း ပြန်ပေါ်လာဖို့

"ဒီကိစ္စမှာ အစိုးရက ကူညီရင်တော့ တစ်သာ သနာလုံး ပြင်လို့ရမယ်၊ မကူညီရင်တော့ မအောင် မြင်နိုင်ဘူး၊ ဒါကြောင့် သင့်တော်တဲ့ အချိန်မှာ အစိုးရကပါ စိတ်ဝင်စားပြီး ဆရာတော်များနှင့် တိုင်ပင်၍ တက်ညီလက်ညီ ဝိုင်းအုံပြုပြင်လိုက်ရင် တော့ လွယ်လွယ်ကလေးနဲ့ အောင်မြင်မှာပဲ၊ ဒီနေရာ မှာ မေးစရာရှိပါတယ်၊ ဘာပြုလို့ ဒါလောက်တောင် ပြုပြင်ချင်နေရသလဲလို့ဆိုရင်တော့ "သာသနာတော် ရဲ့ မူလရည်ရွယ်ရင်းအတိုင်း ပြန်လည်ဖြစ်စေချင် လို့ပါပဲ၊ ဒါကို နည်းနည်း ချဲ့ပြောရရင် ဗုဒ္ဓမြတ်စွာက သာသနာတော်ကို တည်ထောင်တော်မူတဲ့ကိစ္စမှာ **(ဗဟုဇနဟိတာယ ဗဟုဇနသုခါယ, အတ္ထာယ ဟိတာယ သုခါယ ဒေဝမနုဿာနံ)** နတ်လူပြဟ္မာ သတ္တဝါအများ စီးပွားချမ်းသာ ဖြစ်စေဖို့အတွက် ရည်ရွယ်တော်မူခဲ့ရင်း ဖြစ်ပါတယ်။



ပဲခူး ကြခတ်ဝိုင်းကျောင်းတိုက်တွင်

အဲဒီလို ရည်ရွယ်တော်မူခဲ့ရင်း ဖြစ်ပါလျက် ရှေ့ပိုင်းကာလက စပြီး သာသနာပြုသူ ဒါယကာ ဒါယိကာမများနှင့် သာသနာကို အားပေးချီးမြှောက် သူ မင်းများရဲ့ သဒ္ဓါအား ကောင်းလွန်းရာမှ တိမ်း စောင်းမှန်းမသိ တိမ်းစောင်းလာခဲ့ခြင်း, သာသနာ့ ဝန်ထမ်းသားတို့ကလဲ မပြတ်သားခဲ့ခြင်းတို့ကြောင့် ယခုလို နှစ်ပေါင်းကြာလာတဲ့အခါ တိမ်သလာဖုံး သလို တဖြည်းဖြည်း ဖုံးလာခဲ့ရတယ်၊ မူရင်းပျောက် တော့မယောင် အခြေအနေ ရောက်လာခဲ့ရတယ်၊ ဒီတော့ ဘုရားက ဒါတွေကို ကျေနပ်တော်မူနိုင်ပါ့ မလားလို့...အဲလို စဉ်းစားပြီး ဒါတွေ, ဒါတွေကြောင့် ဗုဒ္ဓမြတ်စွာရဲ့ မူလရည်ရွယ်ရင်းအတိုင်း ပြန်ပြီး ပေါ် အောင် ဖော်ချင်လို့ အနာဂတ်သာသနာရေး, ဘာသာသွေး စသည်တို့ဖြင့် ရေးသား၍ လှူဆော်ခဲ့ ပါတယ်၊ ပြီးတော့လဲ ရှေ့ပိုင်းကာလတွေတုန်းက...

**"ကိုယ်သည်လည်းကောင်း, ကိုယ့်အပေါင်းနှင့်, ကိုယ့်နှောင်း ယယ်သား, တိုင်းကျိုး များဖို့, ဘုရား**

**သာသနာတော်, မှူရင်းပေါ်အောင်, ဖွင့်ဖော်သင့်ကြောင်း, အစွင့်တောင်းသည်, အပေါင်းဆရာတော်တို့ဘုရား**"လို့ ...

လေးစားအပ်တဲ့ နိုင်ငံအတွင်းက ဆရာတော်ဘုရားကြီးတွေကို တိုင်တည်လျှောက်ထားဖူးခဲ့ပါတယ်၊ အခုတော့ သိပ်အချိန်ဆွဲနေလို့ မဖြစ်တော့ဘူး၊ အစိုးရက မပါသေးခင် မိမိကျောင်းတိုက်က စပြီး ပြုပြင်ပြောင်းလွဲမှု လုပ်မှပဲ၊ လုပ်သင့်ပြီလို့ အခြေအနေ ရောက်လာတယ်၊ ဒါ့ကြောင့် အခုအချိန်ကစပြီး (နေ့ ပရိယတ်, ည ပဋိပတ်)စနစ်စပြီလို့ အောက်မေ့ကြ"။...

ဤသို့ ဩဝါဒပေးကာ စီမံကိန်းချ၍ မဟာဂန္ဓာရုံကျောင်းတိုက်၏ ကျင့်သုံးနေထိုင်မှုစနစ် ပြုပြင်ပြောင်းလွဲမှုကို စတော့သည်။

**"ယုဝါ စရေ ဖြဟ္မစရိယံ, ဖြဟ္မစာရီ ယုဝါ သိယာ"**

ဖြဟ္မစရိယံ-မြတ်သောအကျင့်ကို၊ ယုဝါ-ငယ်စဉ်ကပင်၊ စရေ- ကျင့်ရာ၏၊ ဖြဟ္မစာရီ- မြတ်သောအကျင့်ကို ကျင့်တဲ့သူသည်၊ ယုဝါ သိယာ-အသက်နုနယ် ငယ်ရွယ်တဲ့သူ ဖြစ်ရာ၏။

## ငယ်ငယ်ကစပြီး တရားကျင့်ပါ

"တေမိယဇာတ်မှာ ဟောထားတာ, ကိုယ်ကျင့်သီလ လုံခြုံအောင် ကျင့်သုံးမယ်, လိုက်နာမယ်, တရားအားထုတ်မယ်ဆိုရင် ငယ်ငယ်ရွယ်ရွယ်က အားထုတ်ပါ, ကျင့်ပါတဲ့၊ သူတော်စင်အဖြစ်နှင့် နေမယ်ဆိုရင်လဲ အသက်နုနယ် ငယ်တဲ့သူ ဖြစ်ပါစေတဲ့။ တေမိယဇာတ်မှာ ဘုရားအလောင်း တေမိမင်းသားကလေး ဖွားလာတော့ သူက ရှင်ဘုရင်မလုပ်ချင်လို့ အ,ယောင် ဆွံ့,ယောင်ဆောင်ပြီး စကားမပြောဘဲနဲ့ နေတယ်၊ ဒါကို စမ်းသပ်ကြည့်တော့လဲ မရဘူး၊ တစ်နှစ်သားကစပြီး နှစ်နှစ်သား သုံးနှစ်သား လေးနှစ်သား အမျိုးမျိုး စမ်းသပ်ကြည့်တယ်၊ မရဘူး၊ ၁၆ နှစ်သားအထိလဲ စမ်းသပ်တာပဲ၊ မရဘူး၊ အ,ယောင် ဆွံ့,ယောင် ဆောင်နေတယ်၊ ဒါနဲ့ နောက်ဆုံးတော့ တောထဲထုတ် မြေမြှုပ်မယ်လို့ တွင်းတူးတော့မှ စကားပြောလာတယ်၊ ဒီတွင်... ဝိုင်းပြီးတောင်းပန်ကြတာပေါ့၊ "ရှင်ဘုရင် လုပ်ပါ"လို့၊ မရဘူး၊ မယ်တော် ခမည်းတော်တွေပါ လိုက်လာပြီး "သားလေးဟာ ငယ်ပါသေးတယ်, ရှင်ဘုရင်လုပ်ပြီး နန်းစည်းစိမ်နှင့် နေပါဦး"ဆိုတော့ တေမိမင်းသားကလေးက ဒီစကားကို ပြောလာတာ။

> **ယုဝါ စရေ ဖြဟ္မစရိယံ,**
> **ဖြဟ္မစာရီ ယုဝါ သိယာ၊**
> **ဖြဟ္မစရိယံ စရိဿာမိ,**
> **နာဟံ ရဇ္ဇေန မတ္ထိကော**။...တဲ့။ [၁]

"မြင့်မြတ်သော အကျင့်ကို ကျင့်တဲ့သူဟာ ငယ်ငယ်က ကျင့်ရပါမယ်တဲ့၊ ဖြဟ္မစာရီ သူတော်စင်လုပ်မယ့်သူဟာလဲ ငယ်ရွယ်တဲ့သူပဲ ဖြစ်ရပါမယ်တဲ့၊ ဒါကြောင့် မြတ်သောအကျင့်ကို ကျင့်တော့မယ်၊ တောထွက်မယ်, တောထဲမှာပဲ နေတော့မယ်၊ မင်းစည်းစိမ်ကို အလိုမရှိပါ"တဲ့။...

## လျော့ရဲရဲ အားထုတ်ရုံနှင့် မရ

"ဟုက်တယ်, ကြီးခါကျမှဆိုတော့ စိတ်ရှိတိုင်း အားမထုတ်နိုင်တော့ဘူး၊ အဘိုးအို အမယ်အိုဘဝကျမှ ဆိုရင် ကိုယ့်အရိုး ကိုယ်သယ်ရတာကအစ တစ်ဒုက္ခ, အပြင်းအထန် အားထုတ်မယ်ဆိုတဲ့ စိတ်ရှိပေမယ့် ခန္ဓာကိုယ်က မလိုက်နိုင်တော့ဘူး၊ တရားဆိုတာကလဲ စားကောင်း သောက်ကောင်းရုံ ပေါ့ပေါ့ကလေး အားထုတ်လို့ ရတာမျိုး မဟုတ်ဘူး၊ အပြင်းအထန် သမ္မပ္ပဓာန် လုံ့လဝီရိယတွေနှင့် အံကြိတ်အားထုတ်မှ ဆိုတာကို...

> **န ယိဒံ သိထိလမာရဗ္ဘ,**
> **န ယိဒံ အပ္ပေန ထာမသာ၊**
> **နိဗ္ဗာနံ အဓိဂန္တဗ္ဗံ,**
> **သဗ္ဗဒုက္ခပ္ပမောစနံ**။ [၂] ...လို့,

"ဒုက္ခခပ်သိမ်းတို့မှ လွတ်မြောက်ရာဖြစ်တဲ့ နိဗ္ဗာန်တရားထူး တရားမြတ်ဆိုတာကို လျော့ရဲရဲအားထုတ်နေလို့ မရနိုင်၊ မလိုလဲ လိုလဲ ပျော့နဲ့နဲ့ အင်အားကလေးဖြင့် ကြိုးစားနေ၍လဲ မရနိုင်"လို့ မြတ်စွာဘုရားက သံယုတ်မှာ ဟောထားတာပဲ။

---

၁။ တေမိယဇာတ်၊ ၄၈ ၊ မဟာနိပါတ – ၃၂။

၂။ နိဒါနဝဂ္ဂသံယုတ်ပါဠိတော်

"ဒါ့ကြောင့် ဦးပဥ္စင်းတို့ ကိုရင်တို့... အသက်ကြီးခါကျမှ တရားအားထုတ်ပေမယ်လို့ လုပ်မနေကြနဲ့၊ အချိန်ဆွဲမနေကြနဲ့၊ သူတော်ကောင်းစိတ် မွေးကြပါ၊ အခုလို အင်အားတွေ ပြည့်တုန်း ငယ်ငယ်က စပြီး ကြိုးစားကြပါ။"

ဆရာတော်သည် နံနက်ခင်းဩဝါဒများ၌ ဤသို့ပင် တိုက်တွန်း မိန့်မြွက်နေချေပြီ၊ ဟုတ်ပါသည်၊ ခါးကိုင်း နားထိုင်း မျက်စိမှုန်တဲ့အရွယ်ကျမှဆိုလျှင် အဘိုးအို အဘွားအိုတို့က မြေးငယ် မြစ်ငယ်ကလေးများအား

**မြေးမြစ်တို့ရဲ့ ကြည့်ဟဲ့အကုန်၊**
**ဟောဒီမြင်လား အဘွားဖြစ်ပုံ၊**
**သွားတွေကျိုးလို့ တစ်မျိုးတစ်ဖုံ၊**
**နားတွေထိုင်း...ခါးကိုင်း မျက်စိမှုန်။** လို့

ပြောပြရတဲ့ အခြေအနေရောက်မှ ဆိုပါက တရားအားထုတ်ရေး၌ ခရီးတွင်တော့မည် မဟုတ်ချေ။

## ဘုရားကျေနပ်ဖို့ အရေးကြီး

ဆရာတော်သည် ယခုအခါ စာတတ်ဖို့ထက် သူတော်ကောင်းဖြစ်ဖို့ဘက်ကို ဦးတည် ဟောပြနေပြီ၊ နံနက်ခင်းဩဝါဒများ၌ သီလလုံခြုံဖို့၊ ဗုဒ္ဓါနုဿတိပွားများဖို့၊ မေတ္တာထားဖို့အပြင် တရားအားထုတ်ဖို့ပါ တိုက်တွန်းနေလေပြီ။

ဝါသနာထုံသော ရှင်ငယ် ရဟန်းငယ်တို့သည်လည်း ဆရာတော်၏ ဩဝါဒများကို အာရုံစူး၍လာကြတော့၏၊ ဆရာတော် ဆွဲဆောင်ရာသို့ ယိမ်းယိုင်လိုက်ပါနေကြပြီ၊ ဆရာတော်က အမိန့်ရှိ၏။...

"သာသနာတော်မှာ စာတတ်ဖို့ထက် စိတ်ကောင်း နှလုံးကောင်း ရှိပြီး သီလလုံခြုံဖို့က ပိုပြီး အရေးကြီးတယ်၊ သီလလုံခြုံပြီးလျှင် ဘာဝနာပွားဖို့ပဲ၊ ဘုရားက အဲဒါမျိုးကိုသာ ကျေနပ်တော်မူမှာ"

ဤသို့လျှင် ဆရာတော်၏ ဟောပြောမှု အကြိမ်ပေါင်း များလာသောအခါ မဟာဂန္ဓာရုံကျောင်းတိုက်မှ ရဟန်းငယ်နှစ်ပါး တောထွက်သွားကြတော့၏၊ အိပ်ရာထဲတွင် စာရေးထားခဲ့ကြသည်၊ "လိုက်မခေါ်ကြပါနှင့်၊ တောထွက်သွားပြီ"ဟူ၍...။

မည်သည့်အရပ်သို့ တောထွက်သွားကြသည် မသိ၊ သပိတ်တစ်လုံး သင်္ကန်းသုံးထည်မျှသာ ကိုယ်စီယူကြ၍ ထွက်ခွာသွားကြသည်၊ နောက်မှ သတင်းရကြ၏၊ တစ်ပါးက အရှေ့ဘက် ရှမ်းပြည်တောင်တန်း၊ တစ်ပါးက အနောက်ဘက် ရခိုင်ရိုးမတောင်တန်းဆီသို့ ခြေဦးလှည့်ကြ၍...။

## အနောက်ဘက်တောင်တန်းသို့

အနောက်ဘက် ရခိုင်ရိုးမတောင်တန်းကြီးတွင် သစ်သီးဝလံများ ပေါများသည်ဟု တစ်ဆင့်စကားကြားဖူး၍ အားကျမိသည်၊ "သစ်သီးစား၍ တရားကျင့်မည်"ဟု ဆို၏၊ ယင်းဆုံးဖြတ်ချက်အတိုင်း စိတ်ကို တင်းတင်းပိုင်း၍ သပိတ်လွယ်ကာ အနောက်ဘက်ကို ခြေဦးလှည့်လိုက်ပါတော့သည်။

အနောက်ဘက်တောင်တန်းကြီးကို လှမ်းမျှော်ကြည့်ရင်း တရွေ့ရွေ့ ခရီးထွက်လာခဲ့သော ကိုယ်တော်သည် တစ်တောဝင် တစ်တောဖြတ် တစ်တောင်တက်၍ တစ်တောင်ဆင်းရင်း တောတွင်းမှ လာခဲ့ရာ ရွှေစက်တော် (ခြေတော်ရာ)ဘုရား အနီးမှ ငဖဲမြို့ကလေးသို့ ရောက်လေ၏။

ထိုမှ ဆက်၍ ရေကြည်အလျှဉ် တသွင်သွင်စီးသော ငဖဲ မန်းချောင်းရေစပ်အတိုင်း လျှောက်ရင်း ဆန်တက်လေရာ အနောက်ရိုးမတောင်တန်းကြီးတွေနှင့် နီးလာလေသည်၊ နီးလာတိုင်း စိတ်အားတက်၍ ဆက်လက်လျှောက်ရာ တစ်နေရာတွင် အစာပြတ်၍ မတ်တတ်က ဗိုင်းခနဲ လဲတော့သည်။

ငဖဲမြို့ တစ်ဖက်ကမ်းရှိ ချောင်းဖြူရွာမှ ဒါယကာများ တောင်ယာတောသို့ အလုပ်လုပ်ကိုင်သွားကြရင်း တွေ့ရတော့၏၊ ပထမဦးစွာ ရေစပ်ရှိ ကျောက်ဆောင်ပေါ်မှာ နှစ်ထပ်သင်္ကန်းကြီးကို တွေ့ကြရ၏၊ ထို့နောက် ခပ်လှမ်းလှမ်းတွင် သပိတ်ကို တွေ့ကြရပြန်သည်၊ အတန်ငယ် ဝေးသောအခါ ရေစပ်တွင် လဲနေသော ကိုယ်တော်ကို တွေ့ကြရတော့၏၊ အသံကလေးယဲ့ယဲ့နှင့် မျော့မျော့သာ ရှိတော့သည်။

လမ်းခရီး၌ ကြိုးကြား ကြိုးကြား တွေ့ရတတ်သော ရွာတို့တွင် ဆွမ်းခံမစားခဲ့သဖြင့် အစာပြတ်၍ မတ်တတ်က လဲခြင်း ဖြစ်တော့၏၊ ဒါယကာများက ပွေ့ထူ၍ ရွာသို့ လှည်းဖြင့် ပင့်တင်ခေါ်လာပြီးလျှင် ပြုစုကြသည်၊ ပြီးမှ ရွာဦးထိပ်က ချောင်းဖြူကျောင်းသို့ ပို့ကြသည်၊ ချောင်းဖြူကျောင်းမှ ဆရာတော် ဦးသုမတိနှင့် ဆရာတော် ဦးစန္ဒောဘာသတို့ကလည်း သူ၏ဆန္ဒ, သူ၏ရည်ရွယ်ချက်တို့ကို ကြည်ညိုလှသဖြင့် ပြုစု ယုယ စောင့်ရှောက်ထားတော်မူကြသည်၊ နောက်မှ အညာဒေသ မြင်းခြံနယ်က သူ့ရွာသို့ အကြောင်းကြားပေးသဖြင့် ရွာမှ လိုက်လာ ပြန်လည် ပင့်ခေါ်သွားတော့သည်။

## အရှေ့ဘက်တောင်တန်းသို့

နောက် တစ်ပါးကား အရှေ့ဘက် ရှမ်းပြည် တောင်တန်းကြီးတွေကို မျှော်၍ မျှော်၍ ကြည့်ရင်း တောလမ်းမှ တရွေ့ရွေ့ သွားနေသည်၊ ရွာစဉ် ရွာဆက်ဝေးသော တောကြို တောကြား တောင်ကြို တောင်ကြား၌ ဆွမ်းခံချိန်မှာ အဓိပ္ပာယ်မဲ့သွားနေသော ကိုယ်တော်တစ်ပါးကို ခရီးသွားတို့က တွေ့ကြ၏။

ကားရပ်၍ စုံစမ်းမေးမြန်းသောအခါ "အရှေ့ဘက် တောင်တန်းဆီကို မှန်းပြီးသွားနေတာပဲ"ဟု အဖြေရသဖြင့် ကားပေါ်တင်သွားကြသောကြောင့် ရှမ်းပြည်သို့ မြန်မြန်ရောက်သွားတော့သည်။

ရှမ်းပြည်က တောင်ယာတောခင်းတို့၌ ဆွမ်းခံရင်း လိမ္မော်သီးတို့ကို စားရင်း တောတောင်တွေထဲမှာ တရားကျင့်နေတော့သည်၊ နောက်သို့ ပြန်မကြည့်ဘဲ ရှေ့သို့သာ တစ်နေ့ တစ်နေ့ တရွေ့ရွေ့ဖြင့် တိုး၍ သွားရာ တရုပ်ပြည် နယ်စပ်နားအထိ ရောက်၍ သွားတော့၏၊ ရောက်လေရာ တောင်ယာတောခင်းတို့မှ လိမ္မော်သီးဆွမ်းဖြင့် အလွန်းသင့်၍ နေခဲ့တော့သည်၊ "နဂိုကမှ လိမ္မော်သီး ခပ်ကြိုက်ကြိုက်ဆိုတော့ အံကိုက်၍ နေတော့၏"ဟု ဆိုသည်။

ဤသို့ နေလာခဲ့ရာ ၁၅ ရက်, အရက် ၂၀ ခန့်မျှရှိသောအခါ သစ်သီးတွေချည်း စားရဖန်များ၍ ဒူးတွေ မခိုင်မြဲဘဲ ယိုင်လဲလုမျှ ဖြစ်လာတော့၏၊ ထို့ကြောင့် ရွာတွေနားသို့ ကပ်၍ ဆွမ်းခံစားရပြန်သည်ဟု ဆိုသည်။

နာရီမှသည် ရက်, ရက်မှသည် လသို့တိုင်အောင် ကြာညောင်းခဲ့ပြီတည်း၊ တောတောင် အထပ်ထပ်၌ ဖြတ်သန်းသွားလာရင်း ကြုံသလို တောင်ယာတောခင်း ကျေးရွာတို့၌ ဆွမ်းခံစားကာ ကျန်သောအချိန်များတွင် တရားနှင့် နေခဲ့သည် ဆို၏။

## သူလျှိုများ ဖြစ်နေမည်လား

ဤသို့ နေလာခဲ့ရာ တစ်နေ့တွင် မြန်မာပြည် အစိုးရ၏ နယ်ခြားစောင့် စစ်တပ်နှင့် တွေ့တော့၏၊ သူ့ကို မယုံနိုင်ပေ၊ "သူလျှိုလေလား"ဟု ထင်မှားကြတော့၏၊ နောက်မှ မဟုတ်မှန်း သိသဖြင့် ဆွမ်းဘောဇဉ်ကိုပါ ထောက်ပံ့ကြတော့၏၊ သူ့ဘွဲ့မည်ကို မေးသောအခါ "အရှင်မဟိန္ဒ"ဟု အဖြေရကြသည်။

ဤနည်းဖြင့် တောကြိုအုံကြား ပစ်ခတ်ကြသည့် ကျည်ဆံကြားတွင် ရက်ပေါင်းများစွာ နေခဲ့သေး၏၊ စစ်တပ်ကလည်း ကြည်ညို၏၊ နောက်ဆုံး၌ စစ်တပ်က မိခင်တပ်ရင်းကို ပြန်တော့မည် အပြုတွင်...

"အရှင်ဘုရား... ဤနေရာ ဤဒေသများ၌ အန္တရာယ်များလှပါသည်၊ တပည့်တော်တို့နှင့် ပြန်၍ လိုက်ခဲ့ပါ"ဟု ပင့်ကြသဖြင့် ပြန်၍ လိုက်လာရာ ပြင်ဦးလွင်သို့ ရောက်လာခဲ့ရလေ၏။

ပြင်ဦးလွင်စစ်တပ်၏ အနောက်ဘက်က မိုက်ကျင်းရပ် မြေလွတ်တစ်ခုပေါ်တွင် နေရာပေးသဖြင့် အေးအေးဆေးဆေးပင် တရားအားထုတ်၍ နေလိုက်သည်၊ ဤသို့ဖြင့် စစ်တပ်ရော, အနီးအနားရှိ ရွာတို့ကပါ ကြည်ညို၍ "မြေကို လှူကာ ကျောင်းဆောက်ပေးမည်"ဟု ဆိုလာကြ၏၊ ထိုအခါ...

"ဦးပဥ္စင်းကို မလှူကြပါနဲ့၊ ဦးပဥ္စင်းက ကြုံရာရောက်ရာ သွား၍ တရား အားထုတ်နေမည်၊ အကယ်၍ လှူလိုကြပါလျှင် ဦးပဥ္စင်းတို့ရဲ့ ဆရာတော်အားသာ လှူပါ"ဟု အမိန့်ရှိသဖြင့် ဆရာတော်ကို မေးသောအခါ "အရှင်ဇနကာဘိဝံသ"ဆရာတော် ဖြစ်၍နေတော့သည်။

## ပြင်ဦးလွင် မဟာဂန္ဓာရုံတိုက်ခွဲ

ထိုအခါ စစ်တပ်ရော, ဝန်းကျင် ဒါယကာတို့ပါ ပို၍ သဘောကျသဖြင့် အမရပူရ မဟာဂန္ဓာရုံ ကျောင်းတိုက်သို့အထိ လိုက်လာ၍ လှူကြတော့၏၊ ဆရာတော်ကြီး အရှင်ဇနကာဘိဝံသကလည်း စိစစ်မေးမြန်း၍ "သင့်တော်မည်"ဟု ယူဆသောကြောင့် လက်ခံတော်မူလိုက်သည်၊ "လာကြည့်ဦးမည်"ဟုလည်း မိန့်လိုက်သေးသည်။

"ဘယ်နေ့ ကြွလာပါမည်လဲဘုရား"ဟု ဒါယကာများက လျှောက်သောအခါ တဲ့ခနဲ တစ်ချက်ရပ်တန့်စဉ်းစားပြီးလျှင် "ယခုလာမယ့် လပြည့်နေ့မှာ လာခဲ့မယ်"ဟု မိန့်တော်မူလိုက်၏၊ ဒါယကာများလည်း အားရ ပျော်ရွှင်စွာဖြင့် ပြန်လည်ထွက်ခွာသွားကြသည်၊ "ပြင်ဦးလွင်မှာ မဟာဂန္ဓာရုံတိုက်ခွဲ ပေါ်လာတော့မည်"ဟုလည်း ဒါယကာများ စိတ်တွင် ကြည်နူးနေကြတော့၏၊ ဆရာတော်က မည်သို့ တွက်ကိန်းချထားသည် မသိပါ၊ လဆန်း ၁၃ ရက်နေ့ နံနက်တွင် ကျောင်းဒါယကာ ဒကာသစ်ကို ခေါ်၍ "ဒကာ ထိန်ဝင်းလဲ လိုက်ခဲ့"ဟု ခေါ်ကာ သုံးဦးသား ဒကာသစ်၏ ဂျစ်ကားကလေးဖြင့် ပေလေးတောင်ကျော်မြင့်သော ပြင်ဦးလွင်တောင်ထိပ်ပေါ်သို့ တက်ခဲ့ကြတော့သည်။

နေ့လယ် ၁ နာရီခန့်တွင် ရောက်သွားကြ၏၊ ရောက်လျှင် ရောက်ချင်း "လှူဒါန်းလိုပါသည်"ဟု ဆိုသော မြေနေရာကိုသာ တန်းပြီး သွား၍ ကြည့်ကြ၏၊ ဆိုင်ရာ ဒါယကာ အနည်းငယ်မျှကိုလည်း ခေါ်သည်၊ ဒါယကာများကလည်း "ဤနယ်နိမိတ်မှ ဤနယ်နိမိတ်အထိ"ဟူ၍ ဝန်းကျင်ပတ်ချာ နယ်သတ်မှတ်၍ ပြပါသည်၊ ဆရာတော်ကလည်း လှည့်ပတ်၍ ကြည့်ရှု၏၊ အားလုံး စုစုပေါင်း မိနစ် ၃၀ ခန့်မျှ ကြာသောအခါ ကိစ္စအားလုံး ပြီးစီးပြီဖြစ်၍ ဆရာ ဒကာ သုံးဦး ပြန်လည် ထွက်ခွာလာခဲ့ကြတော့သည်၊ အပြန်တွင် ကျောင်းဝင်းထဲ တစ်နေရာ၌ တုံးတိုင် သစ်ဝါးတွေ ပုံထားသော အပုံတစ်ခုကို တွေ့၍ ဆရာတော်က ပြုံးသည်၊ "ဘာ့ကြောင့် ပြုံးသည်" ဟုကား နောက်တော်ပါ ဒကာများက မသိခဲ့ကြ၊ ဤသို့ဖြင့် ပြန်လာခဲ့ကြသည်။

## အခမ်းအနားမကြိုက်တဲ့ ဆရာတော်

ထိုနေ့ ညနေ ၄ နာရီခန့် ရောက်သောအခါ အနီးဝန်းကျင်မှ လူရွယ် လူလတ်ပိုင်းနှင့် လူကြီးပိုင်း အချို့တို့ပါ ဒါယကာများ ရောက်လာကြတော့၏၊ ဆရာတော်ကြီး မလာခင် ရက်ပိုင်းကပင် ကြိုတင်ရောက်နေနှင့်သော မဟာဂန္ဓာရုံစာချဘုန်းကြီး ဦးကုဏ္ဍလာဘိဝံသနှင့် အာဝါသိက တောနေဘုန်းကြီးကလေး ဦးမဟိန္ဒတို့က ဆီး၍ မေးကြရတော့၏။

"ဘာလုပ်ကြမလို့လဲ ဒကာတို့"

"လပြည့်နေ့ကျရင် ဆရာတော်ကြီး လာမှာ မဟုတ်လားဘုရား၊ အဲဒီ အခါမှာ ဒါယကာ ဒါယိကာမတွေ သိုက်သိုက်ဝန်းဝန်း စည်စည်ကားကားနဲ့ ကြိုကြမယ်၊ အဲဒီအတွက် မဏ္ဍပ်ထိုးကြရမယ်လို့ လူကြီးတွေ စည်းဝေးပွဲက ဆုံးဖြတ်ထားချက်အရ တုံးတိုင်သစ်ဝါးတွေလည်း ပုံထားပါတယ်။

ဒါ့ကြောင့် တပည့်တော်တို့က မဏ္ဍပ်ထိုးဖို့ တာဝန်ကျလို့ အခု လာတာဘုရား"

"အဲဒီအတွက် ဆိုရင်တော့ မဏ္ဍပ်ထိုးဖို့ မလိုတော့ဘူး ဒကာတို့"

"ဘာလို့လဲ ဘုရား"

"စောစောကပဲ ဆရာတော်ကြီး ကြွလာတယ်၊ လှည့်ပတ် ကြည့်ရှု၍ ကိစ္စပြီးလို့ အခု ပြန်သွားပြီ"

"ဟာ...ဒုက္ခပဲဘုရား"

## ရှေးမှုက လိုက်လို့ မမီအောင်ကောင်း

ဤသို့သော သတင်းလေးများကို နောက်ပိုင်းကျမှ ဒကာထိန်ဝင်းတို့ ဒကာသစ်တို့ ပြန်လည်ကြားကြရ၏၊ ထိုအခါကျမှ တုံးတိုင်သစ်ဝါးပုံကြီးကို ကြည့်ပြီး ဆရာတော် ပြုံးခဲ့ခြင်း၏ အကြောင်းကို သဘောပေါက်ကြရတော့သည်၊ ဤသို့ ပြုလုပ်ကြလိမ့်မည်ဟု ခန့်မှန်းမိ၍ပင် ဆရာတော်က လပြည့်နေ့မတိုင်မီ ကြိုတင်၍ သွားခြင်း ဖြစ်သည်ဟုလည်း နောက်မှ သိကြရတော့၏၊ ဤသို့သော ဆရာတော်ပါပေ။

မြိုင်မြိုင်ဆိုင်ဆိုင် အသိုင်းအဝိုင်း ဂုဏ်ပကာသနတို့ကို လိုလားတတ်ကြသော ဤခေတ်ကြီးထဲတွင် ဆရာတော်က (ရှေး ဆရာ့ဆရာတော်ကြီးများ၏ အပြုအမူကို ပြန်လည်၍ အတုယူနေသောကြောင့်) တစ်မျိုးတစ်ဘာသာလို ဆန်းနေတော့၏။

အမှန်မှာကား "အဆန်းအသစ် ထွင်ခြင်းမဟုတ်ပါတဲ့၊ ဘုရားဝိနည်းတော်အရ ရှေးဆရာ့ဆရာတော်ကြီးတို့၏မှုက လိုက်၍ မမီအောင် ကောင်းလွန်းလို့ အတုယူတာပါ"ဟူ၍သာ ဆရာတော် အရှင်ဇနကာဘိဝံသက မကြာခဏ ပြောပြ၍ နေတတ်ပါသည်။

## နေရာဌာနကောင်းဆိုတာ

ဤသို့အားဖြင့် "ဆရာတော် အရှင်ဇနကာဘိဝံသ ပြင်ဦးလွင်မှာ ချောင်ကျတဲ့နေရာတစ်ခုကို ကျောင်းတိုက်တည်ဖို့ မြေနေရာရသတဲ့"ဟု ကြားကြသောအခါ အချို့ဆရာတော်တို့က ပြောကြသည်၊ "ဒီလို အစွန်အဖျား တောင်ကမ်းပါးယံ ချောက်ကမ်းပါးစောင်း ချောင်ကျတဲ့နေရာမျိုးမှာ ဦးဇနက အလုပ်မလုပ်ပါဘူး"ဟူ၍ ပြောကြသတတ်။

ထိုပြောသံကို ဆရာတော် ပြန်၍ကြားသောအခါ "အဲဒါမျိုးတွေပေါ့၊ ဘုန်းကြီးနဲ့ ခံယူချက်ခြင်း အမြင်ခြင်း မတူကြတာ၊ သူတို့တစ်တွေက လူစည်ပေ့ဆိုတဲ့ လမ်းမကြီးတွေဘေး, ဈေးနားတစ်ဝိုက်, မြို့လယ်ခေါင်တို့လို နေရာမျိုးကို ကြိုက်ကြတာ။

ဘုန်းကြီးက အဲလို မဟုတ်ဘူး, ဒီလို ချောင်ကျတဲ့နေရာမျိုး, တိတ်ဆိတ်နေတဲ့ နေရာမျိုးမှ ကြိုက်တာ, အလွန့်အလွန် လာချင်လွန်းလို့ လာမှ ရောက်နိုင်တဲ့ ဒီလို နေရာမျိုးကိုမှ ကြိုက်တာ"ဟူ၍ မိန့်ပါတော့သည်၊ ထိုပြင်လည်း ဆက်လက် အမိန့်ရှိပြန်ပါသေး၏။

"ကျောင်းတိုက်ကြီးတစ်ခု ကြီးပွားတယ်"ဆိုတာ တစ်ခုကောင်း ပြည့်စုံရုံနှင့် ကြီးပွားတာ မဟုတ်ပါဘူး၊ အချက်အလက် ပြည့်စုံမှ, အင်္ဂါစုံမှ...

> **ဌာနသုဋ္ဌာနတာ လောကေ,**
> **အာဇေရာနံ သွာဇေရတာ၊**
> **သောတူနံ သောဝစဿဉ္စ,**
> **သော အာရာမသမ္ပဒါ။** ... တဲ့။

## အဓိပ္ပာယ်အကျယ် ရှင်းပြခြင်း

အဓိပ္ပာယ်က "ဌာနသုဋ္ဌာနတာ လောကေ" ဆိုတာ လူတို့နှင့် လက်လှမ်းမီလောက်ရာ မှီခိုဆွမ်းခံဖို့ ဂေါစရဂါမ် လုံလောက်ရမယ်၊ ပြီးတော့ တိတ်ဆိတ်ငြိမ်းချမ်းတဲ့နေရာ၊ အတော်အသင့် နေဖို့ ထိုင်ဖို့ အဆောက်အအုံကလေးများ ဆောက်လုပ်နိုင်တဲ့ နေရာ, ရေကောင်းရေသန့်နှင့် လေကောင်းလေသန့်များလည်း ရတဲ့နေရာမျိုး ဖြစ်ရပါမယ်တဲ့။

နောက်တစ်ခုက "**အာဇေရာနံ သွာဇေရတာ**" ဆိုတာ အဲဒီကျောင်းတိုက်မှာ သီလ သမာဓိနဲ့ ပြည့်စုံတဲ့, အဂတိ မလိုက်စားဘဲ တရားမျှတစွာ စီမံတတ်တဲ့ စာတတ် ပေတတ် ကျောင်းထိုင်ဘုန်းကြီး (သို့မဟုတ်) စာချဘုန်းကြီး ရှိရပါမယ်တဲ့။

နောက်တစ်ခု "**သောတူနံ သောဝစဿဉ္စ**" ဆိုတာက စာသင်သား တပည့်များကလည်း ကျောင်းထိုင်ဘုန်းကြီး စာချဘုန်းကြီးများရဲ့ အဆုံးအမ (ညွှန်ကြားတဲ့အတိုင်း)ကို နာခံတဲ့သူတွေ လိုက်နာတဲ့သူတွေ ဖြစ်ရပါမယ်တဲ့၊ ဒါဆိုရင် "**သော အာရာမ သမ္ပဒါ**" ဒီကျောင်းတိုက်ဟာ ပြည့်စုံပြီ, ကြီးပွားနိုင်ပြီ၊ ကြီးပွားနိုင်ဖို့ အကြောင်းအင်္ဂါတွေ ဖြစ်ပြီလို့ ဆိုလိုတယ်၊ အဲဒီလို ပြည့်စုံသင့်တဲ့ အချက်တွေ ပြည့်စုံဖို့သာ အရေးကြီးတာပါ၊ ချောင်ကျတာ မကျတာက ပဓာန မဟုတ်ပါဘူး"။

"မန္တလေး အရှေ့ပြင်မှာ "မဟာမြိုင်ကျောင်းမြေ" ပေါ်လာတုန်းကလဲ ဒီလိုပဲ ဘုန်းကြီးက ဩဝါဒ ပေးခဲ့တာပဲ"ဟူ၍ မိန့်ပါသည်၊ မေမြို့ကျောင်းတိုက်သည် စစ်တပ်၏ အနောက်ဘက် အမှိုက်ကျင်း အရပ်တွင် တည်ရှိ၏၊ သစ်ပင်ပန်းမန်တို့ဖြင့် စိမ်းစိမ်းစိုစို, တောင်ညိုချောက်ကမ်းပါးကြီးတို့မှ စိမ့်စမ်းရေ တသွင်သွင်, လူရှင်ရဟန်းတို့ ကူးသန်းမှုနည်းပါးသဖြင့် တိတ်ဆိတ်ငြိမ်းချမ်းမှု အပြည့်အဝ ရတော့သည်၊ "မဟာဂန္ဓာရုံတိုက်ခွဲ"ဟု နာမည်ပေးထားသော်လည်း သဲသောင်ကမ်းပါးယံကြီး၏ ဘေးတွင် တည်ရှိသောကြောင့် အချို့က လွယ်လွယ်ပင် "သဲတောင်ကျောင်း"ဟု ခေါ်လိုက်ကြတော့၏။

ဆရာတော်ကြီးက အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်မှ စာချဘုန်းကြီး "အရှင်တေဇနိယာဘိဝံသ"ကို အုပ်ချုပ်ရန် အပ်နှံသဖြင့် ယခုအခါ ထို အရှင်မြတ်ပင် ကြီးကဲ အုပ်ချုပ်လျက် ရှိပါသည်။

ဤခန္ဓာကိုယ်ကြီး အတွင်းဘက် လှည့်ကြည့်လိုက်လျှင် ***သစေ ဏ္ဏမသာ ကာယဿ,**

**အန္တော ဗာဟိရကော သိယာ၊**

**ဒဏ္ဍံ နူန ဂဟေတွာန,**

**ကာကေ သောဏေ နိဝါရယေ။**

ဏ္ဏမသာ ကာယဿ - ဤခန္ဓာကိုယ်ကြီး၏၊ အန္တော-အတွင်းဘက်သည်၊ သစေ ဗာဟိရကော သိယာ-အကယ်များ ပြင်ဘက် ဖြစ်သွားအံ့၊ (ဇဝံသတိ-ဤသို့ဖြစ်သည်ရှိသော်၊) ဒဏ္ဍံ-တုတ်တစ်ချောင်းကို၊ ဂဟေတွာန-ကိုင်၍၊ ကာကေ-တရုန်းရုန်းလာတတ်သော ကျီးတို့ကိုလည်းကောင်း၊ သောဏေ-သွားတဖွေးဖွေးနှင့် လာတတ်သော ခွေးတို့ကိုလည်းကောင်း၊ နိဝါရယေ နူန-တဟဲ့ဟဲ့နှင့် ခြောက်နေရမှာပါတကား။

## ကာယဂတာသတိ ဖြစ်အောင်

"ဦးပဉ္စတို့ ကိုရင်တို့...ဗုဒ္ဓါနုဿတိတို့ မေတ္တာတို့ ပွားပြီးတဲ့အခါ "အခုလိုပဲ ခန္ဓာကိုယ်ထဲလဲ လှည့်ကြည့်ကြဦး၊ ခန္ဓာကိုယ်ကြီးကို ဉာဏ်နဲ့ ထက်ခြမ်းခွဲပြီးတော့ အတွင်း အပြင် ပြောင်းပြန်လှန်ကြည့်ကြ၊ ဘာတွေ တွေ့ရမလဲဆိုရင်... နီရဲနေတဲ့ အသွေးအသားတွေ, အသည်း အူတွေ, နှလုံး ကျောက်ကပ်တွေ, ကလီစာတွေ တွေ့ရမှာပဲ၊ ကျီးကန်းတွေသာ အနားမှာရှိ, တရုန်းရုန်းနဲ့ ခြောက်နေရမှာ၊ ခွေးတွေသာ အနားမှာရှိ, တဟဲ့ဟဲ့နဲ့ လက်မလည်အောင် ခြောက်နေကြရမှာ။

အဲဒါတွေကို နှလုံးသွင်းရင် ကာယဂတာသတိ ဖြစ်နိုင်တာပဲ၊ "ဒွတ္တိံသာကာရ"လို့ ခေါ်တဲ့ ၃၂ ပါးသော ကောဋ္ဌာသတို့ အပေါ်မှာ စက်ဆုပ်ရွံရှာဖွယ် အဖြစ် ရှုမှတ်ဆင်ခြင်ရတာကို "ကာယဂတာသတိ" လို့ခေါ်တာပဲ၊ ကာယဂတာသတိဟာ အလွန်ကျေးဇူးများတယ်၊ ကမ္မဋ္ဌာန်းနည်းတိုင်းရဲ့ အခြေခံပဲ။"

ဤသို့လျှင် ယခုတစ်လောကမှ ဆရာတော်က ကမ္မဋ္ဌာန်းတွေချည်း ပြောပြနေတတ်သည်။

## ခန္ဓာကိုယ်ပေါ် ဉာဏ်နဲ့ကြည့်

"အကျယ်ပွားမယ်ဆိုရင်တော့ အောက်ခြေဖဝါးမှ အထက်ဆံဖျားတိုင်, အထက်ဆံဖျားမှ အောက်ခြေဖဝါးတိုင် ဤအတွင်း ဤခန္ဓာကိုယ်ကြီးကို (အညစ်အကြေးတွေနှင့် ပြွတ်သိပ်နေတဲ့ ဒီခန္ဓာကိုယ်ကြီးတစ်ခုလုံးကို) ဉာဏ်နှင့်ကြည့်ပြီး သာယာဖွယ် မဟုတ်, စက်ဆုပ်ဖွယ်အဖြစ်နှင့် ရှုမှတ်ရမှာ, ပါဠိလိုဆိုရင်တော့ "အတ္ထိ ဏ္ဏမသ္မိံ ကာယေ ကေသာ လောမာ နခါ ဒန္တာ တစော, မံသံ နှာရု အဋ္ဌိ အဋ္ဌိမိဉ္ဇံ ဝက္ကံ, စသည်ပေါ့လေ ၃၂ မျိုးလုံး ထင်အောင် မြင်အောင်, အကယ်၍ ၃၂ မျိုးလုံး မစွမ်းနိုင်တောင် အစပိုင်း ၅ မျိုးကိုတော့ စွမ်းနိုင်အောင် ကြိုးစားရမယ်၊ "ကေသာ လောမာ နခါ ဒန္တာ တစော" ဒီ ၅ မျိုးပဲ၊ ဒါကို "တစ"လျှင် ငါးခုမြောက် ရှိလို့မို့ "တစပဉ္စကကမ္မဋ္ဌာန်း"လို့လဲ ခေါ်ကြတယ်၊ ဒီကမ္မဋ္ဌာန်းနှင့် တရားထူးရကြတာကိုပဲ အများကြီး၊ ပါဠိလို သဘော မပေါက်နိုင်ရင် မြန်မာလိုလဲ ဆင်ခြင်ရှုမှတ်နိုင်တာပဲ၊ သဘောပေါက်ဖို့က အဓိကပါ၊ မြန်မာစကားပြေ (သို့မဟုတ်) လင်္ကာနဲ့လဲ ရှုမှတ်နိုင်တာပဲ..."

"**ငါ၏ကိုယ်မှာ, နံ့သာမွှေးကြိုင်, မြနိုင်လှစွာ, ကောင်းရာမဖြင်, ဆံပင်သာရှိ, အမွှေးရှိ၍, ရှိသည့်လက်သည်း, ခြေအသည်းနှင့်, သွားလည်းတစ်တွေ, အရေတစ်မျိုး, ညှီနံ့ဆိုးသည်,... အသိုးအပုပ်ချည်းပါတကား**"။

---

* ဝိသုဒ္ဓိမဂ် – ၁၉၀။

## ၃၂ ကောဋ္ဌာသကမ္မဋ္ဌာန်း အစွမ်းထက်

"ပထမတော့ နှုတ်နှင့် (ပါးစပ်နှင့်) ရွတ်ဆိုရမှာပဲ၊ စာထဲက ဆိုတာဖြင့် ပိဋကတ် သုံးပုံဆောင်ပုဂ္ဂိုလ်ပင် ဖြစ်ပါစေ၊ ဒီကမ္မဋ္ဌာန်းကို နှလုံးသွင်းတဲ့အခါ ပထမ တော့ နှုတ်နှင့်ပဲ ရွတ်ဆိုပါတဲ့။...

နောက်တော့ ကမ္မဋ္ဌာန်းအာရုံတွေ ထင်ရှားလာ ပါလိမ့်မယ်တဲ့။

တစ်ခါတုန်းက မထေရ်ကြီးတစ်ပါးထံမှာ ရဟန်း နှစ်ပါးက ကမ္မဋ္ဌာန်းလာတောင်းကြတယ်၊ မထေရ် ကြီးက ဒီ "ဒွတ္တိံသာကာရ"လို့ ခေါ်တဲ့ ၃၂ ကော ဋ္ဌာသကိုပဲ ရွတ်ဆိုနေပါလို့ ပေးတာပဲ။

အဲဒီ ရဟန်းနှစ်ပါးဆိုရင် သူတို့လည်း စာတတ် ပေတတ်တွေပဲ၊ နိကာယ်တွေ နှစ်မျိုးစီ သုံးမျိုးစီ တောင် နှုတ်ရဆောင်ထားတဲ့သူတွေပဲ။

ဒါ့ကြောင့် ပထမတော့ ကမ္မဋ္ဌာန်းကို သိပ်အား မရသလိုတောင် ဖြစ်တယ်တဲ့။

ဒါပေမယ့် နောက်တော့ ကမ္မဋ္ဌာန်းပေးတဲ့ မထေရ်ကြီးအပေါ် လေးစားတဲ့အနေနဲ့ "ရွတ်ပါ" ဆိုတဲ့အတိုင်း ရွတ်နေကြတယ်၊ ရွတ်ရင်း ရွတ်ရင်းနှင့် လေးလလောက် ကြာတော့ အဲဒီ ကိုယ်တော်နှစ်ပါး လုံး "သောတာပန်တွေ" ဖြစ်ကုန်ကြသတဲ့၊ ကဲ... နည်းတဲ့ အစွမ်းလားလို့။

ဒီ ၃၂ ကောဋ္ဌာသပါဠိကို ရွတ်ဖန်များတော့ စက်ဆုပ်ဖွယ်တွေ အနေနှင့်၊ မတင့်မတယ် ရွံစဖွယ် အသုဘအနေနှင့် ထင်လွယ် မြင်လွယ်ပါလိမ့်မယ်၊ ဒီနည်းနှင့်ပဲ တရားထူးတွေ ရဖို့ ဉာဏ်ဟာ တရွေ့ ရွေ့နှင့် ရင့်သန်လာဖို့ပဲ။...

## အရိုးစုကြီးတစ်ခုတော့ သွားလေရဲ့

တစ်ခါတုန်းကလဲ သီဟိုဠ်မှာ မထေရ်တစ်ပါး ဒီ တရားမျိုးကိုပဲ နှလုံးသွင်းလေ့ရှိဟန် တူတယ်၊ တစ်နေတော့ သူ့ကျောင်းကနေ အနုရာဓမြို့ထဲဆီ ကို ဆွမ်းခံဝင်ဖို့ လာနေတယ်။

အမျိုးသမီးတစ်ယောက်က သူ့ခင်ပွန်းနှင့် စိတ် ဆိုးပြီး အိမ်က ထွက်လာ, သူ့မိဘရွာကို ပြန်မယ်ပေါ့၊ လမ်းမှာ အဲဒီ မထေရ်နှင့် ရင်ဆိုင်တွေ့ကြ တော့တာပဲ၊ အမျိုးသမီးက ပြုံးပြတယ်။

ပြုံးပြတော့ သွားတွေ ပေါ်လာတာပေါ့၊ "သွား တွေ"ဆိုတာ အရိုးတွေပဲ၊ အဲဒီ အရိုးတွေကို (အရိုးစု အနေ) အသုဘသညာအနေနှင့် မထေရ်မြတ်က ရှုလိုက်တော့ တစ်ခါတည်း ရဟန္တာ ဖြစ်သွားတော့ တာပဲ၊ အမျိုးသမီးလဲ ရှောင်သွားပါတယ်။

ရှေ့နားကျရင်ပဲ သူ့ခင်ပွန်းလို့ ထင်တဲ့ လူတစ် ယောက်က မေးတယ်၊ "အရှင်ဘုရား ... ဒီလမ်းမှာ အမျိုးသမီးတစ်ယောက်နှင့် မတွေ့ပါလားဘုရား"တဲ့၊ ဒီတော့ မထေရ်မြတ်က ...

* **နာဘိဇာနာမိ ဣတ္ထီ ဝါ,**
**ပုရိသော ဝါ ဣတော ဂတော၊**
**အပိ စ အဋ္ဌိသံဃာဋော,**
**ဂစ္ဆတေ သ မဟာပထေ။** ... လို့

ပြန်လည် မိန့်ဆိုတယ်။

အဓိပ္ပာယ်က "ဒီလမ်းက သွားတဲ့သူဟာ မိန်းမ လား ယောကျ်ားလားတော့ မသိဘူး၊ ဒါပေမယ့် အရိုးစုကြီး တစ်ခုတော့ (ငါ့ဘေးက ရှောင်) သွား လေရဲ့"တဲ့။

အဲသလောက် ၃၂ ကောဋ္ဌာသလို အသုဘအနေ နှင့် ရှုမှတ်ရတာဟာ ခရီးရောက်တယ်၊ ဒါ့ကြောင့် ဦးပဥ္စင်းတို့ ကိုရင်တို့ ဒီကမ္မဋ္ဌာန်းကို စီးဖြန်းကြ, ရှုမှတ်ကြ"ဟူ၍ ဆရာတော်က မိန့်တတ်ပါသည်။

---

* ဝိသုဒ္ဓိမဂ် ၊ ပ ၊ ၂၀။

## မိုးခေါင်ရေရှားရောဂါဘယများခဲ့၍ သံဃာတော်များ၏ မေတ္တာဖြင့်

၁၃၃၆ ခုနှစ် ကဆုန်လထဲက ဖြစ်၏၊ အမရပူရမြို့နယ်နှင့်တကွ မန္တလေး စစ်ကိုင်း မြစ်ငယ် တံတားဦး စသည့်နယ်တို့ပါ မိုးခေါင်နေကြသည်၊ ရာသီဥတုက ပူပြင်းလွန်း၍ ဒါယကာ ဒါယိကာမတို့မှာ အနေခက်အောင် ဖြစ်ကြရ၏၊ ရောဂါဘယများလည်း ထူပြောလာကြသည်၊ အထူးအားဖြင့် ဝမ်းရောဂါများ ဖြစ်ကြ၏၊ အနည်းအပါး အသေအပျောက်များပင် ရှိလာကြသည်။

ဆရာတော်သည် ထိုသို့ ဖြစ်နေသော အခြေအနေကို "မည်သို့ ပြုလုပ်သင့်သနည်း"ဟု စဉ်းစားနေခိုက် အမရပူရမှ လူကြီးလူကောင်း ဒါယကာတို့သည် ဆရာတော့်ထံသို့ ရောက်လာကြ၏။

"ဆရာတော်ဘုရား...ဤမြို့နယ်အတွင်း မိုးခေါင်ခြင်း၏ အကြောင်းရင်းက စ၍ ရောဂါဘယတွေ ထူပြောလာပါသည်၊ သံဃာတော်များ၏ မေတ္တာဖြင့် ပရိတ်ချီးမြှင့်ပေးစေချင်ပါသည်ဘုရား"...

ဤသို့ လျှောက်ထားသောအခါ ဆရာတော်လဲ သဘောကျ၍ လက်ခံတော့၏၊ ဆရာတော်က အမိန့်ရှိသည်။ "သံဃာတော်များ ၅၀၀ လုံး မြို့တွင်းအနှံ့ ရွတ်ပေးမည်၊ ခြေလျင်ကြွနေရလျှင် မနိုင်မည်လဲ စိုးသည်, သံဃာများလဲ ပင်ပန်းကြမည်, သို့ဖြစ်၍ တစ်စီးလျှင် သံဃာ ၅၀ စီလောက် ဆံ့တဲ့ ကားကြီး ၁၀ စီးလောက် စီစဉ်ပေးပါ"ဟု မိန့်ကြားတော့၏။

### မိုးကြီးသည်းထန်စွာ ရွာချခြင်း

ထိုအစီအစဉ်အရ ဒါယကာ ဒါယိကာမများကလဲ စီစဉ်ပေးသဖြင့် သံဃာတော်များက မြို့တွင်းအနှံ့ ကားများဖြင့် လှည့်ပတ်ရွတ်ကြရာ တစ်မြို့လုံး ပရိတ်သံတို့ဖြင့် ဖုံးတော့သည်၊ အုတ်အုတ် ကျက်ကျက်လည်း နေတော့၏၊ ထိုသို့ ရွတ်၍ တစ်ဝက်ခန့်မျှ ကြာသောအခါ အရပ်လေးမျက်နှာတို့မှ မိုးတွေ အုံ့ဆိုင်း ရီမှောင်လာကြပြီးလျှင် အုံ့အုံ့ဖြိမ့်ဖြိမ့် ဂျိုးဂျိုးဂျိမ့်ဂျိမ့် မိုးတွေ လိမ့်၍ ရွာတော့သည်။



ရွှေကျောင်ဂိုဏ်းလုံးကျွတ်
သံဃာ့အစည်းအဝေးသို့ ကြွရောက်စဉ်

သံဃာတော်များလည်း ပို၍ အားတက်လာကြကာ မိုးရွာကြီးထဲမှာပင် ရွဲရွဲစိုသော သင်္ကန်းတို့ဖြင့် မြို့တွင်းအနှံ့ ရပ်ကွက်အနှံ့ လမ်းအနှံ့ ဖြန့်၍ ရွတ်ကြတော့၏၊ အမိုးဖွင့်ထားသော ကားကြီးတို့အထဲတွင် သံဃာတော်များသည် မိုးရေတို့ဖြင့် နစ်နေကြတော့သည်၊ ဤသို့လျှင် ဆရာတော်ကြီး အရှင်ဇနကာဘိဝံသ၏ အစီအစဉ်ဖြင့် ဒါယကာ ဒါယိကာမများအပေါ်တွင် မေတ္တာစေတနာ အပြည့်ထားကာ ကူညီခဲ့ကြဖူးသည်၊ ဆရာတော်သည် ပရိတ်ရွတ် ကြွကြမည့် သံဃာတော်များအား "ဒါယကာ ဒါယိကာမများအပေါ် ထိထိခိုက်ခိုက် မေတ္တာထား၍ ရွတ်ဖတ်ကြရန်"လည်း မှာကြားသေး၏၊ ထို့အပြင် ဒါယကာ ဒါယိကာမများအား (မြို့နယ်ဆရာဝန်များနှင့် တိုင်ပင်၍) သတိပေး စာရွက်

စာတမ်းများလည်း ရိုက်၍ ဝေသေးသည်။

(က) "ဝမ်းရောဂါ"ဆိုသည်မှာ မိုးပေါ်က ကျလာသော ရောဂါ မဟုတ်ပါ၊ ဥတုပူပြင်းသောအခါ မိုးက အေးလောက်အောင် မရွာသေးသောအခါ လူတို့က အစားအသောက်ကို သင့်တော်အောင် မစားတတ် သောကြောင့် ဤရောဂါ ဖြစ်နိုင်ပါသည်။

(ခ) ထို့ပြင် စွန့်ထားသော ကျင်ကြီးကို အုံတတ်သောယင်ကောင်၏ ထိုကျင်ကြီး၌ ပါနေသော ရောဂါပိုးများကို သယ်ယူလာသဖြင့် ကူးစက်နိုင်သော ရောဂါ ဖြစ်ပါသည်။

(ဂ) ထိုရောဂါသည် မူလက အားနည်းနေသော လူကြီးများ ကလေးများ၌ သာ၍ ကူးစက်လွယ်ပါသည်။

(ဃ) ထိုရောဂါဖြစ်လာရသောအခါ မကောင်းဆိုးဝါးတို့လည်း နှောင့်ယှက်လာတတ်ပါသည်၊ ထိုမကောင်းဆိုးဝါးတို့သည် ပင်ကိုက စိတ်အားငယ်နေသူ, ကြောက်ရွံ့နေသူတို့ကိုသာ နှောင့်ယှက်နိုင်ပါသည်၊ သတ္တိရှိရှိနှင့် ခွန်အားပြည့်သူများကို အနားသို့ မကပ်ဝံ့ပါ။

(င) ယခုရွတ်ဆိုအပ်သော ပရိတ်တော်သည် ပင်ကိုအားဖြင့် တန်ခိုးကြီးမားသော်လည်း ရွတ်ဆိုသော ပုဂ္ဂိုလ်တို့၏ ယုံကြည်မှု, ပီသမှု, နာယူသော ပုဂ္ဂိုလ်များ၏ ယုံကြည်မှု, အားကိုးမှုကို လိုက်၍ တန်ခိုးထက်/မထက် ကွဲပြားနိုင်ပါသည်။

(စ) ထို့ကြောင့် ပရိတ်သက်သက်ကိုသာ အားမကိုးပဲ မိမိတို့ ယုံကြည်မှုနှင့် ရွတ်ဆိုသော ပုဂ္ဂိုလ်များ၏ သီလသိက္ခာ မေတ္တာ ကရုဏာကြီးမား မကြီးမားမှုတို့ကိုလည်း စဉ်းစားရပါသည်။

ထို့ကြောင့်

၁။ ထိုမေတ္တာ ကရုဏာတို့ သန့်ရှင်းသည်ထက် သန့်ရှင်းဖို့ အလှူ့ဒါနကို လုံးဝ မပြုကြပါနှင့်၊ မိမိတို့၏ ယုံကြည်မှု သဒ္ဓါတရားကိုသာ အားပြုကြပါ။ (အလှူ့ဒါန ပါလာလျှင် ထိုအလှူ့ဒါနကို သာယာ မက်မောသော လောဘဇောက ပရိတ်တော်၏ သတ္တိကို ယုတ်လျော့စေနိုင်ပါသည်။)

၂။ ၁၀ ရက်အတွင်း၌ ငါးပါးသီလကို အထူးသန့်ရှင်းအောင် ထိန်းကြပါ။ (သီလ၏ တန်ခိုးကို သိသောအခါ ဆက်လက်၍ ထိန်းချင်လာပါလိမ့်မည်။)

၃။ အားအင် မလျော့ရအောင် သကြိန်ကာလတွင်းလို သဘောထား၍ ကိုယ်သွေးထုတ်မှုကို အထူးရှောင်ကြပါ။

၄။ အအိပ်မပျက်အောင် ပွဲသဘင်များကို ရှောင်နိုင်သမျှ ရှောင်ပါ။

၅။ မသန့်ရှင်းသောအစာ (ယင်အုံသောအစာ)နှင့် အအေးလွန်သောအစာတို့ကို ရှောင်ကြပါ။

၆။ တစ်ညလုံး လေတိုက်ခံ၍ မအိပ်ပါနှင့်၊ သင့်တော်ရုံ လေခံပါ၊ အထိုက်အလျောက် ချွေးရပါစေ။

၇။ သားစိမ်း ငါးစိမ်း သားကြီး ငါးကြီးများကို ရှောင်ပါ။ (ထိုအညှီနံ့များကို မကောင်းဆိုးဝါးတို့ အလွန် ကြိုက်ပါသည်။)

၈။ အိမ်၏ အတွင်း အပြင်ကိုလည်းကောင်း, မိမိ၏ ကိုယ်နှင့် အဝတ်တို့ကိုလည်းကောင်း သန့်ရှင်းအောင် အထူး ဂရုစိုက်ပါ။

၉။ မြန်မာသမားတော်တို့၏ ညွှန်ကြားချက်များနှင့် တက္က မြို့နယ်ဆရာဝန်၏ အောက်ပါ ညွှန်ကြားချက်များကိုလည်း အတတ်နိုင်ဆုံး လိုက်နာပါ။

၁၀။ နောက်နောက် ညဉ့်များ၌ ပတ်ဝန်းကျင်ရွာများ တိုင်အောင် ည ၇ နာရီမှ စ၍ မိမိတို့ ရပ်ကွက် အသီးသီးသို့ ပရိတ်နာဖို့ရန် ပင့်နိုင်ပါသည်။

**အမှာ**—အလှူ့ဒါန လုံးလုံးမပါရ၊ ကားတစ်စီးလျှင် အစိတ် သုံးဆယ်ထက် မနည်းသော သံဃာများကို အသွား အပြန် မပင်ပန်းရအောင် နီးသည် ဖြစ်စေ, ဝေးသည် ဖြစ်စေ ကားသွားနိုင်သော နေရာ အထိ ကားဖြင့် ပင့်ပါ၊ တစ် ရပ်ကွက်လုံး ပရိတ်တော်၏ အသံ လွှမ်းသွားအောင် အသံချဲ့စက် ပါနိုင်လျှင် ကောင်းပါသည်။

**သံဃာတော်များ**

၁၃၃၆ ခု၊ ကဆုန်လဆန်း ၅ ရက်

## ဆရာဝန်၏ ညွှန်ကြားချက်

၁။ ဝမ်းနှုးစာများကိုလည်းကောင်း, ယင်ကောင်အုံသည့် အစားအသောက် အဖျော်ယမကာများကိုလည်းကောင်း ရှောင်ကြဉ်ရန်နှင့် ရေကိုကျိုချက်သောက်ရန်။
၂။ ယင်ကောင်များကို ဖယ်ရှားရန်။
၃။ လက်များကို အစာမစားမီ ဆပ်ပြာနှင့် ပွတ်တိုက် ဆေးကြောရန်။
၄။ မစင်များကို ယင်ကောင် မအုံသည့် နည်းဖြင့် ရှင်းလင်းရန်။
၅။ ဝမ်းရောဂါရှိသော လူများနှင့် ၎င်းတို့၏ မစင်များ, အန်ဖတ်များကို ကိုင်မိပါက လက်များကို ဆပ်ပြာနှင့် အကြိမ်များစွာ ဆေးကြောသုတ်သင်ရန်။

**မြို့နယ်ဆရာဝန်**

ဤသို့လျှင် ညွှန်ကြား နှိုးဆော်စာများကိုလည်း ရိုက်၍ ဝေပါသေးသည်။

# ပရိတ်ရွတ်သူရော နာသူပါ အင်္ဂါစုံမှ
## ပရိတ်တန်ခိုး ထက်မြက်ဖို့ဆိုတာ

ဤကဲ့သို့ ပရိတ်ရွတ်မှု ကိစ္စများ ကြုံလာလျှင် ဆရာတော်က ပြောလေ့ ဟောလေ့ ရှိတတ်ပါ၏၊ ပရိတ်ရွတ်သူဘက်က ပြည့်စုံရမည့် အင်္ဂါ, ပရိတ်နာသူဘက်က ပြည့်စုံရမည် အင်္ဂါများပင် ဖြစ်သည်၊ ပရိတ်နိဒါန်းအဖြစ် ထိုထို နေရာတို့၌ ဆရာတော် ဟောခဲ့သော မှုရင်းကို တိတ်ခွေမှ ကူးယူ၍ တင်ပြလိုက်ပါသည်။

"ပရိတ္တ-ပရိတ်"ဆိုတာ ပါဠိစကား ဖြစ်တယ်၊ ဘေးရန်ရှိလာလို့ရှိရင် အဲဒီ ဘေးရန်ကို ပျောက်ကင်းသွားအောင် စောင့်ရှောက်ရမယ်၊ ဘေးရန် မပေါ်သေးလို့ ရှိရင် မပေါ်လာအောင် စောင့်ရှောက် ကာကွယ်ထားမယ်၊ အဲဒီ အဓိပ္ပာယ်မျိုးကို "ပရိတ်"လို့ ခေါ်တယ်၊ ဒီတော့ ပရိတ်ရွတ်တိုင်းပဲ ဘေးရန်တွေ ပျောက်သွားရောလား ဆိုတော့...

> **ကမ္မံ စေဝ ကိလေသော စ,**
> **အသဒ္ဓဟနာ စာတိ မေ၊**
> **သစေ အတ္ထိ သုဏန္တမှိ,**
> **ပရိတ္တံ တံ န ရက္ခတိ။** ... တဲ့။

ပရိတ်နာတဲ့သူက (ပရိတ်ရဲ့ အစောင့်အရှောက်ကို လိုချင်တဲ့ သူက)- အင်္ဂါရပ်တွေ ပြည့်စုံရမည်၊ ဘာတွေလဲဆိုရင်...

၁။ ကံကြီးထိုက်နေမိရင်...ဥပမာ-အမိဖြစ်စေ, အဖကိုဖြစ်စေ သတ်ဖူးနေမိတယ်၊ ရဟန္တာကို သတ်ဖူးနေမိတယ်၊ အဲဒီလိုပေါ့လေ၊ ကြီးကျယ်တဲ့ ကံကြီးထိုက်နေရင် အဲဒီသူကို ပရိတ်က မစောင့်ရှောက်ဘူး၊ ဒါကြောင့် အဲဒီကံမျိုး မရှိစေရဘူး။
၂။ ပြီးတော့ ပရိတ်နာတဲ့သူက မိစ္ဆာဒိဋ္ဌိအယူ ရှိနေမယ်၊ အဲဒီလို နေပြန်ရင်လဲပဲ ပရိတ်က မစောင့်ရှောက်ဘူး၊ ဒါကြောင့် အယူမှားနေသူ (အယူလွဲနေသူ) မိစ္ဆာဒိဋ္ဌိလဲ မဟုတ်စေရဘူး။
၃။ တစ်ခါ ပရိတ်တော့ နာတော့ နာပါရဲ့၊ ဒါပေမယ့် ပရိတ်ကို သိပ်မယုံဘူး၊ အဲဒီလို မယုံလို့ ရှိရင်လဲ ပရိတ်က အဲဒီသူကို မစောင့်ရှောက်ဘူး၊ ဒါကြောင့် ယုံကြည်သူ ဖြစ်ရတယ်။

ပရိတ်နာတဲ့သူက အဲဒီလို အင်္ဂါ ၃ ပါး စုံနေစေရမယ်၊ နာသူ့ဘက်က တာဝန်က အဲဒါတွေပဲ။

## အင်္ဂါသုံးပါး ညီစေရမှာပဲ

တစ်ခါ ပရိတ်ရွတ်သူဘက်ကလည်း အင်္ဂါရပ်တွေ ရှိသေးတယ်၊ အဲဒီမှာလည်း အင်္ဂါရပ်က သုံးပါးပါပဲ၊ ကိုယ့်ဘက်နှင့်ကိုယ် အရေးကြီးတာပဲ။

ဘာတွေလဲဆိုရင်...

**ပါဠိကွရံ အနာသေတွာ,**
**အတ္ထံ ဇာနိယ သာခုကံ၊**
**အနုဒ္ဒယံ ကရိတွာန,**
**ဘဏေ ပရိတ္တမုတ္တမံ။** ... တဲ့။

သူ့ရဲ့ တစ်ခုချင်း အဓိပ္ပာယ်က...

၁။ ပုဒ် ပါဌ် အက္ခရာ မှန်မှန်ကန်ကန် ရွတ်တတ်ရမယ်။

၂။ အဲဒီ ပုဒ် ပါဌ်ရဲ့ (ပရိတ်ရဲ့) သဘော အနက်အဓိပ္ပာယ်ကိုလည်း သိ, သိပြီး ရွတ်သွားရမယ်။

၃။ ပရိတ်နာတဲ့သူအပေါ်မှာ သနားတဲ့ ကရုဏာစိတ်, အကျိုးလိုလားတဲ့ မေတ္တာစိတ် အဲဒီလို စိတ်မျိုးထားပြီး ရွတ်ရမယ်။

အဲဒီလို ရွတ်တဲ့ ပုဂ္ဂိုလ်ဘက်ကလဲ အကြောင်းအင်္ဂါစုံမှ, နာတဲ့ပုဂ္ဂိုလ်ဘက်ကလဲ အင်္ဂါစုံမှ ဒီပရိတ်တော်ဟာ ဆိုင်ရာအပြစ်တွေကို ကာကွယ်ပြီးတော့ ပေးနိုင်မယ်။

ဒါ့ကြောင့် ပရိတ်ရွတ်တဲ့အခါ ရွတ်တဲ့ပုဂ္ဂိုလ်ရဲ့ အရည်အချင်း ပုဒ် ပါဌ် အက္ခရာ မှန်မှန်ကန်ကန်နှင့် အနက်အဓိပ္ပာယ် နားလည်လို့, တစ်ခါ အနက်အဓိပ္ပာယ်နားလည်တဲ့အပြင် မေတ္တာနှင့်ကရုဏာနှင့် သနားစောင့်ရှောက်လို့, အဲဒီလို ပုဂ္ဂိုလ်မျိုး ဖြစ်ရမယ်၊ ပရိတ်နာတဲ့အခါ နာတဲ့ ပုဂ္ဂိုလ်ကလဲ မိမိမှာ အပြစ်ကြီးတွေ မရှိဘူးဆိုရင် ယုံယုံကြည်ကြည်နှင့် နာရမည်၊ အဲဒီလို ဆိုလို့ရှိရင် ဒီပရိတ်တော်က ဘေးရန် အန္တရာယ်တွေကို စောင့်ရှောက် ကာကွယ်ပါတယ်။

**အရှင်ဇနကာဘိဝံသ**
၁၃၂၅ ခု ကဆုန်လ

## သူ့ဘက် ကိုယ့်ဘက် တာဝန်ကျေကြမှ

ဤသို့လျှင် ဆရာတော်က ပရိတ်ရွတ်မှု, ပရိတ်နာမှုနှင့် ပတ်သက်ပြီး ကျန်းဂန်လာ်နှင့်အညီ ဖြစ်ကြဖို့ ဟောပြလေ့ သတိပေးလေ့ ရှိပါသည်၊ မှန်ပါ၏၊ ထိုသို့ နှစ်ဦးနှစ်ဖက်လုံး အင်္ဂါညီညွတ်ကြမှလည်း လိုအပ်သည့်အကျိုး ပြီးမြောက်ကြမည် မဟုတ်ပါလော။

ယခုအခါတွင်ကား အချို့နေရာများ၌ ပရိတ်ရွတ်သူရော, ပရိတ်နာသူပါ တာဝန်ဝတ္တရားကျေလို သဘောထားနေကြသဖြင့် အားမရစရာလို ဖြစ်နေကြရပြီ၊ ပရိတ်အပေါ် လေးလေးစားစား မရှိကြသလိုလည်း ဖြစ်၏။

ထို့ကြောင့်လည်း စဉ်းစားတတ်သော လူကြီး လူကောင်း ဒါယကာကြီး တစ်ဦးက လျှောက်ဖူးသည်

"တပည့်တော်အိမ်မှ တစ်ခါတော့ သယာ ၁၀ ပါး ပင့်ပြီး အန္တရာယ်ကင်း ပရိတ်နာဖူးတယ်ဘုရား။

တစ်ပါးက ရှမ်းဖက် ဆေးလိပ်ကြီးကို လက်ကြားညှပ်လျက် ရွတ်တယ်ဘုရား။

တစ်ပါးကတော့ ညှိပြီးသား စီးကရက်က မကုန်တတ်သေးတော့ မစွန့်ရက်နိုင်ဘဲ တစ်ချက် တစ်ချက်ဖွာရင်း ရှိုက်ရင်း ရွတ်တယ်ဘုရား။

ဟိုတစ်ပါးကတော့ ကွမ်းကြိုက်တယ်နဲ့တူပါရဲ့၊ ကွမ်းယာကြီး ငုံလျက် မထွေးရက်ဘဲ ရွတ်တယ်ဘုရား။

ဒါတွေထက် နောက်တစ်မျိုး ဟိုနေရာ ဒီနေရာတွေမှာ တွေ့ရတတ်တာက မေတ္တာသုတ်ကလေး တစ်သုတ်ကိုတောင် ဖြည်းဖြည်းအေးအေး မရွတ်ကြဘူး၊ အမြန်ပြီးဖို့အရေး ဒုန်းစိုင်း၍ ရွတ်ကြတယ်ဘုရားတဲ့။

## သားအဖနှစ်ဦးလုံး ပြင်ထိုင်ကြမှ

အင်း-ခက်ကပြီ၊ ဒါယကာကြီးက သူမြင်သမျှ ဘဝင်မကျ၍ တင်ပြလျှောက်ထားနေချေပြီ၊ ဒကာကြီး လျှောက်တဲ့အတိုင်း ဆေးလိပ်ကြီးတွေ လက်ကြားညှပ်ရင်း ရွတ်သည်ဆိုပါက ပရိတ်အပေါ် မလေးစားရာ ကျသည်မှာ အမှန်ပင် ဖြစ်၏။

ကွမ်းယာကြီးတွေ ပါးစောင်ဖုအောင် ငုံပြီးရွတ်ကြရာ၌လည်း အဘယ်မှာလျှင် ပုဒ်ပါဠိ အက္ခရာ မှန်ကန်ပီသနိုင်တော့မည်နည်း၊ ဒူးနှစ်ချောင်း၍ ရွတ်ရာ၌လည်း အဘယ်မှာလျှင် မေတ္တာ ကရုဏာစိတ် ဝင်နိုင်တော့မည်နည်း၊ ထို့ကြောင့်ပင် ဖြစ်မည်လားမသိ၊ နာသူတွေ ဘက်ကို ပြန်၍ ကြည့်သောအခါတွင်လည်း တွေ့နိုင်ပြန်ပါသည်၊ အချို့က "ပရိတ်ရွတ်သည်မှာ ရှည်လျားသည်၊ ကြာညောင်းသည်"ဟု ထင်လေသလား မသိ၊ စိတ်မဝင်စားနိုင်ဘဲ မျက်နှာကို တစ်ဖက်သို့ လွှဲထား၍ တွေးချင်ရာတွေး ငေးချင်ရာငေး နေတတ်ကြသည်။

အချို့ကလည်း ခင်းထားသော သင်ဖြူးဖျာထက်က အကွက်ကို လက်ညှိုးဖြင့် ရေတွက်နေတတ်ကြ၏၊ အချို့ကမူ ဖျာကော်ဇောကို လှန်လှော၍ ကြမ်းပိုးရှာနေတတ်ကြသည်။

ဤသို့လျှင် သူ့ဘက်ကိုယ့်ဘက် နှစ်ဖက်စလုံး အမြင်မတော်မှုကလေးများ, ပြုပြင်စရာကလေးများ ရှိနေတတ်သည်ပင်၊ ထို့ကြောင့် ထမင်းစားပွဲတစ်ခုတွင် အမြင်မတော်ကြ၍ "တို့ သားအဖ နှစ်ယောက်စလုံး ပြင်၍ ထိုင်ကြဦးစို့"ဆိုသလို ပြင်၍ ထိုင်ကြမှ တော်တော့မည်။

## လေးလေးစားစား စီစဉ်၍

ဤပရိတ်ရွတ်မှုနှင့်စပ်၍ လယ်တီဆရာတော်ဘုရားကြီးကဆိုလျှင် "ပရိတ်ရေများကို လက်ဖြင့်မွှေနှောက်၍ ရွတ်ရမည်"ဟူ၍လည်းကောင်း, ပရိတ်သဲ, ပရိတ်ခဲတို့ကို လက်ဖြင့် ပွတ်သပ်ဆုပ်နယ်၍ ရွတ်ရမည်"ဟူ၍လည်းကောင်း, ပရိတ်ချည် ပရိတ်ကြိုးတို့ကို လက်ဖြင့် ကိုင်ထား၍ ရွတ်ရမည်"ဟူ၍လည်းကောင်း မိန့်ကြားတော်မူကြောင်း မှတ်သားရဖူးပါသည်။

ဝေသာလီမြို့ကြီးတွင် အရှင်အာနန္ဒာ တစ်ညလုံး ပရိတ်ရွတ်စဉ်ကလည်း သပိတ်ဖြင့် ရေတို့ကို ခပ်၍ သယ်၍ ပရိတ်ရေအဖြစ် မြို့တွင်း အနှံ့ လမ်းကြိုလမ်းကြား, တံတိုင်းကြို တံတိုင်းကြားအနှံ့ ပက်ဖျန်းသည်ဟူ၍လည်း စာလာ ပေလာတို့အရ သိရပါသည်၊ ဤနမူနာအတိုင်း ဆရာတော် အရှင်ဇနကာဘိဝံသလည်း ကျင့်သုံးဖူးပါ၏။

တစ်ခါက ရန်ကုန်သို့ ရောက်နေခိုက်တွင် ဖြစ်သည်၊ ဦးညီညီ (စာရေးဆရာ လင်းယုန်နီ)၏ မိခင်ကြီး မကျန်းမမာ ဖြစ်၍ လာရောက်ပင့်ရာ ဆရာတော်က လိုက်ပါကြွရောက်၍ ပရိတ်ရွတ်ပေးတော်မူသည်၊ ပရိတ်မရွတ်မီ အဓိပ္ပာယ် ပြောပြသေး၏၊ ပြီးမှ ပရိတ်ကြိုးတစ်စကို လူမမာအားကိုင်စေ၍ တစ်ဖက် တစ်စွန်းတစ်စကို ဆရာတော်က ကိုင်ပြီးလျှင် ရွတ်တော်မူ၏၊ ယုံကြည်မှုဖြင့် နာယူသောကြောင့် ထူးထူးခြားခြား ပျောက်ကင်း ကျန်းမာလာဖူးသည်။

## လေးလေးစားစား ရွတ်ပါလျှင်

တစ်ခါတွင်လည်း ရန်ကုန် သောမဆင်လမ်းက အိမ်အန်တောင် ကျားပရုပ်ဆီ ဒါယိကာမကြီး ဒေါ်စော သည် အမရပူရ မဟာဂန္ဓာရုံသို့ ရောက်လာဖူး၏၊ ရောက်လာခိုက်တွင် အပြင်းအထန် နေမကောင်းဖြစ်၍ ဆရာတော်အား လာရောက် ပင့်ကြ၏၊ ဆရာတော်က လိုက်ပါကြွလာ၍ ပရိတ်ရွတ်ပေးတော်မူသည်၊ ထိုစဉ်ကလည်း အနီးတွင် လွယ်လွယ်ရှိသော တဘက်ကြီးတစ်ထည်ကို ယူစေခဲ့၍ အစွန်းတစ်ဖက်က လူမမာကို ကိုင်စေသည်၊ ပြီးမှ ကျန်အစွန်းတစ်ဖက်ကို ဆရာတော်က ကိုင်၍ ပရိတ်ရွတ်ပေးရာ ထူးထူးခြားခြား ကျန်းမာပျောက်ကင်း လန်းဆန်းလာဖူးသည်။

တစ်ခါတွင်ကား ရန်ကုန်တွင် ရောက်နေခိုက် ၄၅ လမ်းမှ ချုပ်သင်းဦးဘသင်၏ ဇနီး ဒေါ်သိန်း မကျန်းမမာ ဖြစ်သည်၊ စိုးရိမ်ရလောက်အောင် ဖြစ်နေသည် ဆို၏၊ ဆရာတော်ကို လာပင့်သဖြင့်

လိုက်ပါ ကြွရောက်၍ ပရိတ်ရွတ်ပေးသည်၊ မရွတ်မီ အဓိပ္ပာယ်ကို ရှင်းလင်းပြောပြပါသေး၏၊ ထိုစဉ်က ဇောဇ္ဈင်သုတ်ကို ရွတ်မည်ဖြစ်၍ ဇော့ဇ္ဈင်အကြောင်းကို ရှေးဦးစွာ ရှင်းပြနေပါသေးသည်၊ ထိုဟောပြောချက်တို့ကို ထိုစဉ်က (ဝိုင်ယာ)ရီကော့ဒါဖြင့် ဖမ်းယူထားခဲ့၍ ယခုကဲ့သို့ ပြန်လည် တင်ပြနိုင်ခြင်းဖြစ်ပါသည်။

ပရိတ်ရွတ်ပြီးနောက် သိသိသာသာ လန်းဆန်းကျန်းမာဖြစ်လာပြီးလျှင် နောက်ထပ် သုံးနှစ်ကျော်ကျော်တိုင်အောင် အသက်ရှည်၍ နေနိုင်ခဲ့၏၊ ထို့ကြောင့်လည်း ခြောက်ထပ်ကြီးဘုရားကြီးတိုက် သိမ်တော်ကြီးကို အပြီးအစီး ဆောက်လုပ်လှူဒါန်းသွားနိုင်ခဲ့ခြင်း ဖြစ်သည်ဟူ၏၊ ဤသို့လျှင် ပရိတ်ကို လေးလေးစားစား စီစဉ်၍ လေးလေးစားစား ရွတ်သလို နာကြားကြပါက အမှန်ပင် တန်ခိုးအရှိန်အဝါ ထက်မြက်ကြောင်း တွေ့ရှိနိုင်ကြပါသည်။

## ဘုန်းရှိန်သမ္ဘာအမြင့်ဆုံးကာလများ
### အရဟံဂုဏ်တော်၏ အစွမ်းသတ္တိများ

မဟာဂန္ဓာရုံကျောင်းတိုက်အတွင်း၌ သံဃာများ တရိပ်ရိပ် တိုးလာခဲ့သလောက်,... နေဖို့ ထိုင်ဖို့ အဆောက်အအုံများလည်း... တစ်ခုပြီး တစ်ခု ဆောက်လုပ်လှူဒါန်းသူတွေ ပေါ်၍ ပေါ်၍ လာခဲ့သည်။

၁၃၃၄ ခုနှစ် (ဆရာတော်၏ သက်တော် ၇၃ နှစ်)တွင် သံဃာ ၅၀၀ ကျော်ဆိုသည်ကို ရည်မှန်းပြီး ဆွမ်းကပ်သူတွေ သိသိသာသာကြီး များလာခဲ့သည်။

၁၃၃၅ ခုနှစ် (ဆရာတော်၏ သက်တော် ၇၄ နှစ်)တွင်မူ ရဟန်း သာမဏေ ၅၅၀ ကျော် ဖိုးသူတော် ၃၀ ကျော်အထိ ရှိလာပြန်၏၊ ဆွမ်းကပ်သူတွေ ပို၍ များလာပြန်သည်၊ ကျောင်းအဆောက်အအုံများလည်း နှစ်နှစ်အတွင်းမှာ ကျောင်းလတ်ကျောင်းကြီး ၁၂ ကျောင်းလောက် တစ်ပြိုင်နက်လိုလို တိုးလာကြ၏။

ထိုသံဃာများ နေသာ ထိုင်သာ ရှိအောင် လုံလောက်ခဲ့လေသည်၊ ဤသို့ ဖြစ်လာကြသည်မှာ "ဘုရားရှင်၏ ပူဇော်ထိုက်သော အရဟံဂုဏ်တော် အစွမ်းကြောင့်သာ"ဟု ဆရာတော်က ထုတ်ဖော်ကျူးရင့်ခဲ့ပါသည်။

ဤသို့လျှင် ယခုမှ ပြိုလိုမ့်ဆင်းလာသော ဘုန်းကံတို့ကို ဆရာတော်က (မိမိဘုန်းကံ အဖြစ်ဖြင့်) မိန်းမော သာယာနေသည် မဟုတ်ပါ၊ သူ့မိတ်ဆွေရင်းထံသို့ ပေးသော စာဖြင့် သိနိုင်ပါ၏။

တစ်နေ့တွင် အလွန်ရင်းနှီးသော ငယ်ပေါင်း သီတင်းသုံးဖော်ဖြစ်သည့် လပွတ္တာမြို့ လေးထပ်ကျောင်းတိုက်မှ ဆရာတော် ဦးကုသလထံသို့ စာတစ်စောင် ပေးတော်မူ၏၊ ထိုစာတွင်

"အရှင်ဘုရား တပည့်တော်နှင့် အရှင်ဘုရားပါ (ဆရာတပည့် တစ်စုတို့သည်) ငယ်စဉ်က စ၍ အရွယ်ရောက်သည့်တိုင်အောင် ဘုန်းကံ နည်းပါးခဲ့ကြ၏။

ယခုမှ နာမည်ကြီးလာခြင်း, ဘုန်းကံ ကြီးမားလာခြင်း ဖြစ်ပါသည်၊ အသက်တွေလဲ ကြီးလာကြပြီ၊ ပွဲပြီးခါနီးမှ ရကြသော နေရာကောင်းတို့ဖြင့် အရှင်ဘုရားရော တပည့်တော်ပါ အထင်ကြီးစွာ သာယာပြီး မနေသင့်ကြပါ။

အလွန်မကြာသော အချိန်ကာလမှာပင် မိမိတို့ရဲ့ ခန္ဓာနှင့်တကွ သက်ရှိ သက်မဲ့ အခြွေအရံ အားလုံးကို စွန့်ခွာ၍ ကံစီမံရာကို သွားကြရမည် မဟုတ်ပါလားဘုရား"ဟူ၍ ရေးသားထား၏။

ဆရာတော်၏ ခံယူချက်တို့ကား ရှင်းလှပါသည်။

## စာအုပ်ဖြစ်အောင် ကြိုးစားရိုက်ရပုံ

ဆရာတော်၏ ပင်ကိုမူလ စာချ စာရေးအလုပ်တို့ကလည်း သက်တော်ကြီးလေ အလုပ်တွေက ပိုမိုပြီးစီးအောင်မြင်လေဖြစ်၏။ ယခု ၁၃၃၅ ခု တပေါင်းလဆန်းပင်လျှင် ဆရာတော်၏ သက်တော်မှာ ၇၅ နှစ်တွင်းသို့ ဝင်လာခဲ့လေပြီ၊ ထိုအချိန်တွင် ပို့ချရေးသားခဲ့သော ဝိဘင်းပါဠိတော်, သမ္မောဟဝိနောဒနီ အဋ္ဌကထာနှင့် မူလဋီကာတို့ ပြီးစီးအောင်မြင်သွားကြသဖြင့် အားရကျေနပ်တော်မူနေရလေသည်။

နေ့စဉ်နေ့တိုင်း မှန်မှန်ပို့ချ၍ မှန်မှန် ရေးသားလာခဲ့သလို တစ်ဖက်မှလည်း ပြီးသမျှ စာမူတွေကို စာအုပ်ဖြစ်အောင် ကြိုးစားခဲ့ရာ ထိုဘာသာဋီကာကြီးမှ ပထမတွဲပြီးစီးသွားခဲ့သည်၊ ပြီးစီးအောင်လည်း အတော်ကြိုးစားလိုက်ရ၏၊ ထိုအချိန်က စက္ကူများ အခက်အခဲ ရှိ၍ ရိုက်နေကျ စက်တွင် မထုတ်ဝေနိုင်ခဲ့။

ထို့ကြောင့် ဦးစွာ ပထမ အဖြတ်အတောက်, အထားအသို ဆရာတော်က သူ့စိတ်ကြိုက် ဖြစ်အောင် ပြုပြင်၍ အနီးမှာရှိသော စက်တွင် ၅ ဖောင်လောက် ရိုက်လိုက်၏၊ ပြီးမှ ၂ ဖောင်လောက်ကို ရန်ကုန်မြို့ ကမ္ဘာအေး(ဗုဒ္ဓသာသနာအဖွဲ့ပုံနှိပ်တိုက်) ညွှန်ကြားရေးမှူး ဒါယကာ ဦးလှမောင် ထံသို့ ပို့ရသည်။

ဦးလှမောင်က တစ်ဖန် ကမ္ဘာအေး ဗုဒ္ဓသာသနာအဖွဲ့ ပုံနှိပ်စက်တွင် ဆရာတော့်မူအတိုင်း (အဖြတ်အတောက် အထားအသို မှန်ကန်အောင်) ထပ်မံစီပြီး ရိုက်သင့်သော အရေအတွက်ကို ရိုက်နှိပ်ဖြန့်ချိရတော့သည်၊ ဤသို့ ပြုလုပ်ရသဖြင့် စာစီခ ရိုက်ခ နှစ်ထပ်ကွမ်း ကုန်ကျရ၏၊ သို့သော်လည်း စာအုပ်ကိုင်သူများအဖို့ "မူကောင်းမူသန့်ရပါစေ" ဟူသော မေတ္တာဖြင့် ဆောင်ရွက်ပေးခြင်း ဖြစ်လေသည်။

## ဗုဒ္ဓါနုဿတိဘာဝနာစာအုပ်

တဖြည်းဖြည်းနှင့် နွေပိုင်းရောက်လာ၍ ရာသီဥတုက ပူပြင်းလှ၏၊ နွေရက်၏ သရုပ်က တစ်စတစ်စ ပီပြင်လာသည်ဟု ဆိုရမည်၊ ကျောင်းတိုက်ဥယျာဉ်တွင်းမှ ပင်ကြီး ပင်ငယ် ပင်မြင့် ပင်လတ် ပင်ပျပ် ပင်စောက်တို့၏ အရွက်တို့သည်ပင် အချို့ရော်၍ အချို့ ဝါ၍ အချို့ လေခ၍ ကြွေစ ပြုလာကြလေပြီ၊ သူတို့ကပင် ဂိမှာန်နွေဦးသို့ ရောက်လာပြီဟု ပြောသလို ဖြစ်နေတော့၏၊ ချပို့ခဲ့သော စာဝါများတွင် အချို့ပါဠိတော်, အဋ္ဌကထာကြီးများ ပြီးစီးချိန်နှင့် ကြုံကြိုက်နေသဖြင့် ခေတ္တ စာဝါများ နားထားသည်။

သို့သော် ဆရာတော်မှာကား အနားယူရသည် မရှိပါ၊ ကျောင်းအမကြီး ဒေါ်ကြင်တို့က မဟာဂန္ဓာရုံကျောင်းတိုက်တွင် ဆောက်လုပ်ခဲ့သော နှစ်ထပ်ကျောင်းကြီး ပြီးစီးပြီဖြစ်၍ ရေစက်ချပွဲ ပြုလုပ်တော့မည် ဖြစ်၏၊ ထိုပွဲတွင် သီလရှင်များ လူပုဂ္ဂိုလ်မိတ်ဆွေများ တော်တော်များများ ဖိတ်လိုပါသည်၊ ဖိတ်မန်ရာတွင် "မှတ်သားစရာ စာအုပ်ကလေးဖြင့် ဖိတ်မန်လိုပါသည်"ဟုလျှောက်သဖြင့် သင့်တော်မည့် စာအုပ်ကလေးတစ်အုပ်ကို စီစဉ်ပေးရပြန်ပါ၏။

ထိုကိစ္စအတွက် ဆရာတော်မှာကား သိပ်ပြီး ထူးထူးခြားခြား ဝန်လေးလှမည် မဟုတ်ပါ၊ နေ့စဉ်နံနက်တိုင်း သံဃာတော်များက တစ်လှည့်စီ ရွတ်ဆိုရလေ့ရှိသော သံဝေဂဂါထာ, လင်္ကာကဗျာများနှင့် နီးစပ်ရာ ဒါယကာ ဒါယိကာမတို့အား ဟောပြောလေ့ရှိသော တရား အတိုကလေးများကိုပင် မူထား၍ "ဗုဒ္ဓါနုဿတိဘာဝနာ"ဟူသော အမည်ဖြင့် စာအုပ်ကလေးတစ်အုပ် စီစဉ်ပေးရတော့သည်။

ဤသို့လျှင် ဆရာတော်မှာ "နွေအခါ ချွေးတလုံးလုံးဖြင့် အပြင်မှ အရိန်ဟပ်သော သဘာဝအပူဒဏ်ကို အလုပ်ပြီးမြောက်သဖြင့် ဝမ်းမြောက်ရသော ပီတိသောမနဿအတွင်း အအေးဓာတ်ဖြင့် ခုခံရင်း အချိန်ကို ကုန်စေခဲ့သည်"ဟု မိန့်တော်မူဖူး၏။

"စာဝါများ ခေတ္တ နားသည်" ဆိုသော်လည်း

ဆရာတော်မှာကား အားလှသည် မဟုတ်ပါ၊ ပြဿနာမေးလိုသူများ ရောက်ရောက်လာတတ်ကြ၏၊ ထိုအချိန်ကပင် အင်္ဂလန်မှ ကလေးဆရာဝန် ပါမောက္ခဆိုသူတစ်ယောက် မဟာဂန္ဓာရုံသို့ ရောက်လာခဲ့၏။

ထိုဆရာဝန်က ဗုဒ္ဓဘာသာဆိုင်ရာအရ "နောက်ဘဝသို့ လိုက်၍ ကံက အကျိုးပေးပုံ" စသော ဘာသာရေးဆိုင်ရာ ပြဿနာ မျိုးစုံကို မေးလာ၏၊ ဆရာတော်က စိတ်ရှည်ရှည်ထား၍ ဖြေကြားပေးသဖြင့် "သူ့မှာ အလွန် ကျေနပ်သောက်အောင် အဖြေ ရပါသည်"ဟု ဝန်ခံသွားလေသည်။

ထိုဆရာဝန်က ပြောသေး၏၊ "အင်္ဂလန်က ထွက်လာခါနီးမှာ အထူးအဆန်း တစ်ခုခု တွေ့ရလိမ့်မယ်" လို့ ထင်ခဲ့ပါသတဲ့၊ "ယခု တွေ့ရတာဟာ သူ့အတွက် အထူးအဆန်းပါပဲ"ဟုလည်း ဝမ်းမြောက်ဝမ်းသာ လျှောက်ထားသွားခဲ့လေသည်။

## ပြဿနာမျိုးစုံ မေးမြန်းလာကြ

၁၃၃၆ ခု ဝါတွင်း၌ သံဃာ ၄၅၀ ရှိ၏၊ ယခင်နှစ်ကထက် ၁၀၀ ခန့် လျော့သွားသည်၊ ယင်းနှစ်တပေါင်းလဆန်းလျှင်ပင် ဆရာတော်၏ သက်တော်မှာ ၇၆ နှစ်တွင်းသို့ ဝင်လာခဲ့၏၊ သက်တော် ရင့်ညောင်းလာခဲ့ပြီ ဖြစ်သော်လည်း မူလအလုပ်ဖြစ်သည့် စာချ စာရေး ဩဝါဒပေး ကိစ္စတို့ကိုကား အရှိန်မပျက် ဆောင်ရွက်လုပ်ကိုင်တော်မူလျက်ရှိ၏၊ ယုံကြည်သူ ကိုးကွယ်သူ ကြည်ညိုသူ ဆည်းကပ်သူတို့ကလည်း ပို၍ ပို၍ များလာကြသည်။

နိုင်ငံခြားမှ ဧည့်သည်တို့ကလည်း (ဗုဒ္ဓဘာသာဝင် ဟုတ်သူရော မဟုတ်သူပါ) ရောက်ရောက်လာကြ၍ သူတို့ အလိုရှိရာ ဘာသာရေးပြဿနာတို့ကို မေးကြ၏၊ ထို့ကြောင့်ပင် ဆရာတော်က "မူလအလုပ်ထဲက အချိန်တွေကို ဖဲ့ဖဲ့ပေးရသဖြင့် ငြီးငွေ့စရာ တစ်မျိုး ဖြစ်လာတယ်"ဟုပင် ညည်းငြူရဖူးသည်။

ပြည်တွင်းမှ ရဟန်း ရှင်လူတို့၏ အမေးပုစ္ဆာ ပြဿနာများကမူ ထို့ထက် စောစောကပင် ရောက်ရောက် လာတတ်ကြ၏၊ ရဟန်းများကမူ ရဟန်းခံကထိန် သိမ်သမုတ် ဝတ်ဆောက်တည် ဝိနည်းကိစ္စ အရပ်ရပ် စာပေရေးရာ အခဲအကပ်တို့ကို မေးမြန်းနေကြပြီ၊ ထိုကိစ္စတို့ကိုလည်း အချိန်ဖဲ့၍ ဖြေကြားပေးနေခဲ့ရသည်။

ဤသို့လျှင် နေ့ပိုင်းကိစ္စတို့ကို ဆောင်ရွက်ရင်း ၁၃၃၇ ခုနှစ်သို့ ကူးပြောင်းလာသောအခါ နယုန်လထဲတွင် (အောက်အောက် အဘိဓမ္မာပါဠိတော်, အဋ္ဌကထာကြီးများ ရေးသား ချပို့ပြီးသဖြင့်) အထက်အထက် အဘိဓမ္မာပါဠိတော်နှင့် အဋ္ဌကထာကြီးများကို ချပို့ရေးသားရန် ပြင်ဆင်ရလေ၏၊ နယုန်လပြည့်ကျော် ၁ ရက်နေ့တွင်(ပဋ္ဌာနကြီးကုံးကျမ်းတွင် အပါအဝင်ဖြစ်သော)ကထာဝတ္ထုပါဠိတော်ကို အဋ္ဌကထာ, ဋီကာတို့နှင့်တွဲ၍ ချပို့ရေးသားတော်မူခဲ့သည်။

## သီလကို အခြေခံ၍ ဘာဝနာပရိကံ စကြ

ဝါတွင်းရောက်သောအခါ သုတ်မဟာဝဂ္ဂပါဠိတော်ကိုလည်း အဋ္ဌကထာ ဋီကာတို့နှင့် တိုက်ဆိုင်၍ ချပို့ ရေးသားတော်မူ၏၊ ဤနှစ် ဝါတွင်း၌ ဝါဆိုသံဃာ ၄၂၀ မျှသာ ရှိခဲ့၏၊ ယခင်နှစ်ကထက် ထပ်၍ လျော့သွားပြန်သည်၊ ဘာ့ကြောင့်နည်း။

၁၃၃၅ ခု ဝါကျွတ်ပြီးကတည်းက သံဃာလက်ခံပုံ စည်းကမ်း ပြုပြင် တင်းကျပ်လိုက်၍ ဖြစ်သည်၊ ထို့ပြင် ပြီးခဲ့သော ဝါကျွတ်ကာလက စ၍ ဆရာတော်က မူချ မိန့်မှတ်သည်။

"သံဃာများအားလုံး စာမေးပွဲဦးစားမပေးသော စာပို့ချနည်းဖြင့်သာ စာချ စာသင်ကြရမယ်၊ ညဉ့်ဘုရားဝတ်တက်ပြီးရင် စာအံ စာပြန် မရှိကြရ၊ အိပ်ချိန်ရောက်သည့်တိုင်အောင် တရားထိုင်ကြရမယ်၊ ယခု အချိန်မှစ၍ (နေ့ ပရိယတ်, ည ပဋိပတ်)စနစ်ကို အစပျိုးကြ၊ သီလကို ဖြူစင်အောင် အထူးဂရုစိုက်ကြ, စာမေးပွဲ အရေးထားသူများ တခြားနေရာတွေမှာ ပြောင်းရွှေ့နေကြပါဦး"ဟူ၍ မူသစ်ပြင်လိုက်သောကြောင့်လည်း ဖြစ်ပေသည်။

## လေ့စွက်ရည်းကျန် အလဲမလှဲ

"ယခုလို မူသစ်ပြင်၍ စည်းကမ်းတင်းကျပ်လိုက်လျှင် သံဃာတွေ တဖြည်းဖြည်း နည်းကုန်လေမလား၊ ကျောင်းတိုက်ကြီး ခြောက်သွေ့သွေ့များ ဖြစ်ကုန်လေမည်လား"ဟု နီးစပ်သော ဆရာတော်တချို့နှင့် ဒါယကာ ဒါယိကာမများက စိုးရိမ်ကြသည်၊ ၁၃၃၅ ခုနှစ် ဝါတွင်းက ဆူပူမှုကြောင့် အပြစ်ရှိသူများကို ဖယ်ရှားစဉ်ကလည်း မြင်းခြံမြို့မှ ဆရာတော်နှင့်ရင်းနှီးသော ဒါယကာ ဦးရီက လျှောက်ထားဖူး၏။

"ဆရာတော်ဘုရား...ဆရာတော်အနေနှင့် မိမိတပည့်များကို အားမရနိုင်သော်လဲ တပည့်တော်များအနေဖြင့် ဤမျှလောက် နေထိုင်ကျင့်ကြံ၍ စာပေသင်အံကြသည်ကိုပင် ကျေနပ်လှပါပြီ၊ ယခုအခါတွင် သာသနာတော်မှာ တစ်နေ့တခြား ဦးရေနည်းပါးပြီး ဆုတ်ယုတ်သည့် လက္ခဏာကို ပြနေပါသည်၊ ထို့ကြောင့် သာသနာတော်အတွက် အားမနည်းစေရန် သည်းခံ မွေးမြူတော်မူပါဘုရား"

ဤသို့ လျှောက်ထားသည်ကို ဆရာတော်က "ဒကာကြီး ... ဘာတွေ လျှောက်နေတာလဲ၊ သာသနာကြီးပွားတယ်ဆိုတာ ရဟန်း သာမဏေ ဦးရေများနေတာကို ခေါ်တာမဟုတ်ဘူး၊ ဝိနည်းကို လေးစားပြီး သီလ သမာဓိ ပညာ သိက္ခာသုံးပါး ပြည့်စုံသူတွေ များမှသာလျှင် သာသနာကြီးပွားတယ်၊ သာသနာထွန်းကားတယ်လို့ ဆိုရတယ်။

သီလ သမာဓိ ပညာ ကိုယ်ကျင့်သိက္ခာ မပါတဲ့ ဦးရေတွေ များနေရုံနှင့်တော့ အလကားပဲ၊ အဲဒီ ပုဂ္ဂိုလ်တွေအတွက် အလျှော့မပေးနိုင်ဘူး၊ နည်းရုံမကလို့ မိမိတစ်ပါးတည်း ကျန်ပါစေ၊ အလဲမလှဲဘူး ဒကာကြီး"ဟူ၍ ပြန်လည် မိန့်ကြားဖူးလေသည်။

ထို့ကြောင့် ဆရာတော်ကား ကိုယ်ကျင့်သီလ ဦးစားမပေးသော စာသင်နည်းစနစ်တွေကို ဖယ်ရှားပြီး ကိုယ်ကျင့်သီလကို ပဓာနထားသော စာသင်နည်းစနစ် ပန်းတိုင်သို့ အရောက်သွားမည်သာ ဖြစ်သည်၊ သို့မှလည်း "သာသနာတော် ပင်ရင်းပေါ်မည်"ဟု မိန့်တော်မူသည်။

ထို့ကြောင့် ဆရာတော်ကား ကိုယ်ကျင့်သီလ ဦးစားမပေးသော စာသင်နည်းစနစ်တွေကို ဖယ်ရှားပြီး ကိုယ်ကျင့်သီလကို ပဓာနထားသော စာသင်နည်းစနစ်ပန်းတိုင်သို့ အရောက်သွားမည်သာ ဖြစ်သည်။

သို့မှလည်း "သာသနာတော် ပင်ရင်းပေါ်မည်" ဟု မိန့်ဆိုတော်မူသည်။

## အစဉ်အလာဘဝကို ဆင်ခြင်သုံးသပ်ခြင်း

"စာသင်သားလောကဆိုလျှင် (သို့မဟုတ်) စာသင်နေရသေးသောအရွယ်ဆိုလျှင် စာကိုသာ သင်ရ၏၊ သမထတွေ ဝိပဿနာတွေ လုပ်ဖို့ မလိုအပ်သေး"ဟု အစဉ်အလာကပင် သိနေခဲ့ကြ၏၊ ကြာပြီဖြစ်သည်၊ စာပေသင်ကြားရေးကို ဦးစားပေးနေရသော ပုဂံခေတ်လောက်ကပင် စတင်ခဲ့ဟန်တူ၏၊ ထိုခေတ်တုန်းကတော့လည်း အခြေအနေအရ ပါဠိဘာသာ ဗုဒ္ဓယဉ်ကျေးမှုကို ရယူနိုင်ဖို့ရန် ထိုကဲ့သို့ပင် ခွင့်လွှတ်ခဲ့ဟန် တူသည်။

ဤနည်းဖြင့် ရပ်တည်လာခဲ့သော မြန်မာပြည် ရဟန်းတော်များ စာသင်သားလောက၏ ဘဝကို ဆရာတော် အရှင်ဇနကာဘိဝံသက အားမရနိုင် ဖြစ်ခဲ့၏၊ "ကိုယ်ကျင့်သီလကို ဘေးဖယ်ချထားပြီး စာပေသင်ကြားမှု ဂန္ထဓုရတစ်ခုတည်းကိုသာ ဦးစိုက်ဆောင်ရွက်နေခြင်းသည် ဘုရားရှင်၏အလိုတော်ကျ ဟုတ်နိုင်ပါမည်လော"ဟု မကြာ မကြာ တွေးတောမိ၏၊ ထိုတွေးတောမှုကို ယခုအခါ ပီပီပြင်ပြင် ထပ်မံဆင်ခြင်မိပြန်သည်၊ အချိန်အခါလည်း ရောက်လာပြီဟု ဆိုရမည် ဖြစ်၏၊ "တစ်သာသနာလုံးကို မပြုပြင်နိုင်သေးလျှင် ရှိစေ၊ မိမိတစ်နိုင်တစ်မ၊ မိမိ၏ ကျောင်းတိုက်ကိုကား ဘုရားရှင်၏ အလိုတော်နှင့် အနီးကပ်ဆုံးရောက်အောင် ပို့ချမည်မှာ မိမိတာဝန်သာ ဖြစ်၏"ဟု ဆုံးဖြတ်ချက်ချလိုက်သည်။

ဤသို့ မူသစ်ပြုပြင်ရေးအတွက် ဆုံးဖြတ်ချက်ချချိန်တွင်မှ တိုက်တိုက်ဆိုင်ဆိုင် ပို့ချနေဆဲ သုတ်မဟာပါဠိတော်နှင့် အဋ္ဌကထာမှ မဟာပဒါနသုတ်တွင် စပ်သော ပုဂ္ဂိုလ် ၄ မျိုးကို တွေ့နေရပြန်၏၊ ဥဂ္ဃဋိတညူ၊ ဝိပဉ္စိတညူ၊ နေယျ၊ ပဒပရမပုဂ္ဂိုလ်တို့ ဖြစ်သည်၊ ထိုပုဂ္ဂိုလ်တို့၏ သဘောသွားကို အဋ္ဌကထာဆရာက ခွဲခြားပြရာ ဆရာတော်က အားရလှ၏၊ ဤနေရာတွင် အများသိနိုင်ရန် ထိုကျမ်းမှ ယူ၍ ဖော်ပြလိုက်ပါသည်။

## ထိုပုဂ္ဂိုလ် ၄ မျိုးကို အဋ္ဌကထာဆရာက ရှင်းပြခြင်း

အဋ္ဌကထာဆရာက ဥပမာဖြင့်ပြ၏၊ (၁) ရေမျက်နှာပြင်ပေါ်၌ ကျော်၍ ပေါ်နေသောကြာ၊ (၂) ရေမျက်နှာပြင်နှင့် ညီနေသောကြာ၊ (၃) နောက်ရက်ရောက်မှ ရေမျက်နှာပြင်ပေါ် ကျော်၍တက်လာမည့်ကြာ၊ (၄) ရေပေါ်သို့ မတက်လာတော့ဘဲ ငါးလိပ်တို့၏ အစာ ဖြစ်ကာ ရေ၏ အတွင်း၌ပင် ပျက်စီးရသည့် ကြာဟု လေးမျိုး ပြသည်။

* (၁) ရေမျက်နှာပြင်ပေါ်၌ ကျော်၍ ပေါ်နေသောကြာသည် အရုဏ်တက်၍ နေအလင်းရောင်ရသည်နှင့် တစ်ပြိုင်နက် ပွင့်မည့်ကြာ ဖြစ်၏၊ ထို့အတူ မြတ်စွာဘုရား၏ တရားအလင်းရောင် တွေ့ရသည်နှင့် တစ်ပြိုင်နက် မဂ်ဖိုလ်တရားထူးရသည့် ပုဂ္ဂိုလ်မျိုး ရှိ၏၊ နံပါတ်(၁) ကြာနှင့် တူသည်၊ ထိုပုဂ္ဂိုလ်မျိုးကို **ဥဃဋိတညူပုဂ္ဂိုလ်**ဟု ခေါ်ရ၏၊ (ဉာဏ်ကို ဖွင့်ပေးလိုက်သည်နှင့် တန်းပြီး တရားသိသူဟု အဓိပ္ပာယ် ရ၏၊ အကျဉ်းမျှ ဟောရုံဖြင့် တရားသိ၏။)

အရှင်သာရိပုတ္တရာသည် အရှင်အဿဇိထံမှ ဂါထာနှစ်ပါဒကို ကြားရရုံဖြင့် သောတာပန်ဖြစ်သကဲ့သို့ ပုဂ္ဂိုလ်မျိုးဖြစ်၏၊ ဤသဘောသွားကို မှတ်သားလွယ်အောင် ဆရာတော်က လင်္ကာသီကုံး၍ ပေးထားသည်။

**[ဆောင်] သစ္စာလေးဝ, မြတ်ဓမ္မကို, စ၍ဟောလင့်, ဉာဏ်ကိုဖွင့်က, လွယ်လင့်ထုတ်ချောက်, တရားပေါက်မှု, ထိုသည့်လူ, တညူဥဃဋိမှတ်။**

(၂) ဘုရားစသော သူတော်ကောင်းများ တရားဟောသောအခါ အကျဉ်း အကျယ် ဟောပြောလေ့ရှိတတ်ကြ၏၊ ထိုသို့ ဟောရာတွင် အကျဉ်းဟောတုန်းက အနက်အဓိပ္ပာယ်ကို မသိသေး၊ အကျယ်ကို ဟောလိုက်မှ အနက်အဓိပ္ပာယ်ကို သိပြီး တရားထူးရသူများ ရှိ၏၊ ထိုပုဂ္ဂိုလ်မျိုးကို ဝိပဉ္စိတညူဟု ခေါ်ရသည်။ (အကျယ် ချဲ့ဟောမှ တရား သိသူဟု အဓိပ္ပာယ်ရ၏။) ရေမျက်နှာပြင်နှင့် ညီနေ၍ အလင်းရောင် လုံလုံလောက်လောက် မရသေးသဖြင့် မပွင့်နိုင်သေး၊ ကျယ်ကျယ်ပြန့်ပြန့် အလင်းရောင်ဖြန့်ခြင်းကို ခံယူရမှ ပွင့်မည့် ကြာနှင့် တူ၏။

**[ဆောင်] အကျဉ်းအရေး, ဟောတုံငြားက, တရားထင်ထင်, မသိမြင်ဘဲ, ချဲ့ထွင် ထပ်လျှောက်, အကျယ်ရောက်မှ, ထွင်းဖောက်သိမှု, ထိုသည့်သူ, တညူပဉ္စိ မှတ်။**

(၃) နောက်ရက်ရောက်မှ ရေမျက်နှာပြင်ပေါ်သို့ ကျော်၍ ပေါ်တက်လာမည့်ကြာသည် ယခုအခါ (နေအရုဏ်လင်းရောင်အနုကိုလည်း မရ, အရင့်ကိုလည်း မရသဖြင့်) မပွင့်နိုင်သေး၊ ထို့အတူပင် တရားကို အကျဉ်း ဟောရုံဖြင့်လည်း သဘောမပေါက်, အကျယ်ချဲ့၍ ဟောပြန်သော်လည်း အဓိပ္ပာယ်မသိနိုင်သော ပုဂ္ဂိုလ်မျိုးရှိ၏၊ ဤပုဂ္ဂိုလ်မျိုးသည် ထိုကြာမျိုးနှင့် တူ၏၊ သို့သော် ထိုပုဂ္ဂိုလ်သည် တရားအဓိပ္ပာယ်ကို...

**(က) ဥဒ္ဒေသ**-ဆရာသမားက ကျကျနနရွတ်ပြသောကြောင့်ဖြစ်စေ၊

**(ခ) ပရိပုစ္ဆာ**-အနက် အဓိပ္ပာယ်ကို အမှန်အတိုင်း သိအောင် ဆရာ့အထံ၌ ဖြည်းဖြည်းအေးအေး မေးမြန်းရ၍ ဖြစ်စေ၊

**(ဂ) ယောနိသောမနသိကာရ** - ထိုသို့ မေးမြန်းပြီးနောက် တရားအဓိပ္ပာယ်ကို စဉ်းစားဆင်ခြင်ကာ စိတ်ထဲ၌ နှလုံးသွင်းထား၍ ဖြစ်စေ၊

**(ဃ) ကလျာဏမိတ္တသေဝန** - ကမ္မဋ္ဌာန်းအားထုတ်နည်း, နှလုံးသွင်းနည်းကို သင်ပြပေးနိုင်သော မိတ်ကောင်းဆွေကောင်း ဆရာသမားကောင်းတို့ကို မှီခိုဆည်းကပ်ရ၍ ဖြစ်စေ ဤသို့ ပြည့်စုံပြီးနောက် အဖန်ဖန် အထပ်ထပ် ကြိုးစားအားထုတ်ပါမှ တရားထူးရသော ပုဂ္ဂိုလ်မျိုးကို **"နေယျပုဂ္ဂိုလ်"**ဟု ခေါ်ရ၏။ (ဥဒ္ဒေသာဒီဟိ နေတဗ္ဗောတိ နေယျော ဥဒ္ဒေသ စသည်တို့ဖြင့် ဆောင်ပြထိုက်သော ပုဂ္ဂိုလ်ဟု အဓိပ္ပာယ်ရ၏။)

**[ဆောင်] ဘုရားဓဟာဖော်, တရားတော်ကို, သင်သော်မယွင်း, နာယူခြင်းနှင့်, ရှင်းလင်းအောင်မေး, မြဲဆွေးနွေးလျက်, ကြံတွေးစဉ်းစား, ဘာဝနာပွားမှ, တရားရမှု, ထိုသည့်သူ, ခေါ်ယူ နေယျမှတ်။**

(၄) နောက်ဆုံးပုဂ္ဂိုလ်မှာ ပါဠိ အဋ္ဌကထာကျမ်းစာတို့ကို တတ်သိအောင် သင်ယူပြီးလျှင် အဓိပ္ပာယ်ကိုလည်း ဆရာသမားတို့အထံ၌ အဖန်ဖန် မေးမြန်းပြီးလျှင် ကိုယ်တိုင် စာချဆရာ ကမ္မဋ္ဌာန်းဆရာဖြစ်၏၊

---

* ဒီ –၂ –၌၊ မဟာပဒါန – ၆၀။

43A

သီလသိက္ခာ စင်ကြယ်စွာဖြင့် ကမ္မဋ္ဌာန်းကို ကြိုးပမ်းအားထုတ်၏၊ သို့သော် ထိုဘဝ၌ တရားထူး မရ၊ ဥပမာဆိုလျှင် ရေ၏ အတွင်း၌ပင် ငါး လိပ်တို့၏ အစာဖြစ်ကာ ရေပေါ်သို့ မတက်လာနိုင်သော စတုတ္ထကြာမျိုးနှင့်၏တူသည်၊ အဋ္ဌကထာ၌ ပြသည်မှာ- "**ဗဟုံပိ သုဏာတော**-(ယခုခေတ်တရားနာသလို) များစွာ နာယူပါသော်လည်း၊ **ဗဟုံပိ ဘဏာတော**-(ယခုခေတ်တရားဟောသလို)များစွာ ဟောပါသော်လည်း၊ **ဗဟုံပိ ဂဏှတော**-များစွာသင်ယူပါသော်လည်း၊ **ဗဟုံပိ ဓာရယတော**-များစွာမှတ်သားပါသော်လည်း၊ **ဗဟုံပိ ဝါစယတော**-များစွာ ပို့ချပါသော်လည်း၊ **တာယ ဇာတိယာ**-ထိုဘဝဖြင့်၊ ဝါ-ထိုဘဝ၌၊ **န ဓမ္မာဘိသမယော ဟောတိ**-တရားထူး မရနိုင်"ဟူ၍ ဖြစ်သည်၊ ထိုပုဂ္ဂိုလ်၏ ဤဘဝအတွက် အခွင့်ထူးအကျိုးရမှုမှာ ဟောပြောပို့ချ၍ နားလည်ရသော ပုဒ်ပါဌ် အက္ခရာစာပေတို့မျှလောက်သာ ရရှိ၏၊ တရားထူး မရ၊ ထို့ကြောင့် (ပဒံ ပရမံ ယဿာတိ ပဒပရမော)ဟူ၍ **ပဒပရမပုဂ္ဂိုလ်** ခေါ်ရလေသည်။ (ပုဒ်ပါဌ် အက္ခရာ ကျမ်းစာတတ်ရုံမျှသာ အလွန်ဆုံး အတိုင်းအရှည်ရှိသူဟု အဓိပ္ပာယ်ရ၏။)

**[ဆောင်] ဘုရားဟောဖော်, တရားတော်ကို, သင်**
**သော်မယွင်း, နာယူခြင်းနှင့်, ရှင်းလင်းအောင်**
**မေး, မြဲဆွေးနွေးလျက်, ကြွေး ပို့ချ,**
**တရားပြ၍, သီလသိက္ခာ, စင်ကြယ်စွာဖြင့်,**
**ဘာဝနာကမ္မဋ္ဌာန်း, လွန်ကြိုးပမ်းလည်း,**
**ဉာဏ်စွမ်းမပြ, တရားမရဘဲ, ဘဝ နောင်ခါ,**
**အထုံပါဖို့, ကျမ်းစာပုဒ်ပါဌ်, တတ်ရုံသာထိ,**
**အကျိုးရှိ, ခေါ်ဘိ ပဒပရမ မှတ်။**

## ပဒပရမပုဂ္ဂိုလ်ဖြစ်အောင် ကြိုးစားကြ

ယခုခေတ်၌ ပဒပရမပုဂ္ဂိုလ်ဆိုလျှင် ဖျင်းအထုံထိုင်း၍ စာမတတ်နိုင်သောပုဂ္ဂိုလ်ဟု ယူဆကြ၏၊ ဤအဋ္ဌကထာအဖွင့်အရ ဆိုပါလျှင် ထိုသို့ မဟုတ်ချေ၊ ပဒပရမပုဂ္ဂိုလ်သည် နေယျပုဂ္ဂိုလ်ကဲ့သို့ စာတတ်အောင် သင်နိုင်ပါ၏၊ သို့သော် နေယျပုဂ္ဂိုလ်ကဲ့သို့ (တရားအားထုတ်သောအခါ) တရားမပေါက်သောကြောင့်သာ ပဒပရမအဆင့်အတန်းသို့ လျောကျသွားရပါသည်။

ရှေ့ပုဂ္ဂိုလ် ၃ မျိုးသည် ဤဘဝ၌ တရားထူး ရနိုင်၏၊ ပဒပရမကား ဤဘဝ၌ တရားထူး မရနိုင်၊ သို့သော် နောက်နောက်ဘဝတို့၌ တရားထူးရဖို့ရန် အထုံဝါသနာ ဖြစ်နိုင်၏။

(**"ပဒပရမာနံ အနာဂတေ ဝါသနတ္ထာယ ဟောတိ"** ဟု အဋ္ဌကထာကဆိုသည်။)

ထို့ကြောင့် "ဤဘဝ၌ အားထုတ်မှုသည် လုံးလုံး အကျိုးမရှိ"ဟု မဆိုနိုင်၊ အထုံဝါသနာဖြစ်စေပြီးလျှင် နောက်နောက်ဘဝ နောက်နောက်သာသနာတို့၌ **တိက္ခပည**-ထက်မြက်လွယ်ကူသော ဉာဏ်ရှိသူ၊ **ခိပ္ပာဘိည**-လျင်မြန်သော တရားထူးရရန် ဉာဏ်ရှိသူများ ဖြစ်ပြီးလျှင် ဥဂ္ဃဋိတညူ၊ ဝိပဉ္စိတညူ ပုဂ္ဂိုလ်များ ဖြစ်လာဖို့ အခြေခံ ဖြစ်သည်သာ။

ဤနေရာ၌ ဋီကာက (တေန အတ္တဘာဝေန မဂ္ဂံ ဝါ ဖလံ ဝါ၊ အန္တမသော ဈာနံ နိဗ္ဗတ္တေတုံ န သက္ကောတိ) ပဒပရမပုဂ္ဂိုလ်သည် ထိုဘဝ ထိုအတ္တဘောဖြင့် မဂ်ဖိုလ်ကို မရနိုင်၊ အောက်ထစ်ဆုံး ဈာန်ကိုမျှ ဝိပဿနာကိုမျှ မဖြစ်နိုင်ဟု ဖွင့်၏။

ဤစကားကို ထောက်လျှင် "ပဒပရမပုဂ္ဂိုလ်သည် မဂ်ဖိုလ်ရအောင်, ဈာန်ရအောင်, ဝိပဿနာဖြစ်အောင် ကြိုးစားသေးကြောင်း သိနိုင်၏။

ထိုစိတ်ဓာတ်ရှိသူသည် အခြေခံသီလကိုလည်း လုံခြုံအောင် စောင့်စည်းလိမ့်မည်ဟု သိနိုင်၏၊ သို့ဖြစ်လျှင် ယခုခေတ်အနေဖြင့် နောက်ပိတ်ဆုံး ဖြစ်သော ပဒပရမပုဂ္ဂိုလ်ကိုပင် အလွန်ကြည်ညိုစရာ ကောင်းနေတော့သည်။

ယခုခေတ် အချို့ရဟန်း သာမဏေတို့သည် ဤ နောက်ပိတ်ဆုံး အဆင့်မျိုးကိုပင် မေ့လျော့နေကြ၏၊ ရဟန်းအလုပ် မလုပ်ကြဘဲ မဆိုင်ရာအလုပ်တွေကို ကြိုးစားနေတတ်ကြ၏၊ သို့ဖြစ်၍ ဆရာတော်က အားမရနိုင် ရှိခဲ့ရလေသည်။

ထို့ကြောင့် ဆရာတော် အရှင်ဇနကာဘိဝံသက မိမိ၏ ကျောင်းတိုက်မှ သံဃာများကို "ဤ နောက်ပိတ်ဆုံးအဆင့် ပဒပရမပုဂ္ဂိုလ်များ ဖြစ်အောင်ပင် ကြိုးစားကြရမယ်"ဟု ဒုလ္လဘကထာ ကျမ်းစာအုပ်ငယ် ရေး၍ မိန့်မြွက် တိုက်တွန်းထားလေသည်။

# ပဒပရမပုဂ္ဂိုလ်လို့ ပြောရင် မနာနဲ့

## ပဒပရမဟာ သူတော်ကောင်းပဲ

ဤ ပဒပရမပုဂ္ဂိုလ်နှင့် စပ်၍ ဆရာတော်က နံနက်ခင်းဩဝါဒတွင် ဤသို့ မိန့်ဖူးပါသည်၊ "ပဒပရမပုဂ္ဂိုလ်"လို့ ပြောရင် တချို့က နာတတ်ကြတယ်၊ မနာနဲ့၊ အခုပြောခဲ့တဲ့ အဋ္ဌကထာ ဖွင့်ဆိုချက်ဆိုရင် ပဒပရမပုဂ္ဂိုလ်ဟာ သူတော်ကောင်းပဲ။

သူဟာ သီလစောင့်တယ်၊ စိတ်ကောင်း ရှိတယ်၊ ဝိပဿနာလဲ ပွားတာပဲ၊ စာကိုလဲ တတ်အောင် သင်နိုင်တာပဲ၊ ဒီဘဝမှာ တရားထူး မရတာ၊ ဒါပေမယ့် နောင်ဘဝတွေအတွက် သူ့အဖို့ မျှော်လင့်ချက်တွေ အများကြီးရှိတယ်၊ တချို့သူတွေများ လုပ်နေကြတာ, ဒီနောက်ဆုံး ပဒပရမပုဂ္ဂိုလ်အဆင့်လောက်တောင် မမီကြဘူး၊ မေ့မေ့လျော့လျော့တွေ, တလွဲတခြား မတရားတွေ လုပ်နေကြတယ်၊ အဲဒီပုဂ္ဂိုလ်မျိုးတွေက ဒီ ပဒပရမပုဂ္ဂိုလ်လောက်တောင် မျှော်လင့်စရာ မလိုဘူး၊ ဒါကြောင့် "အနည်းဆုံး ပဒပရမပုဂ္ဂိုလ်လောက်တော့ ဖြစ်အောင် ကြိုးစားကြပါ"လို့ တိုက်တွန်းနေရတာ"။

ဤသို့လျှင် ပဒပရမပုဂ္ဂိုလ်ကိုပင် အထင်သေးဖွယ် မဟုတ်ကြောင်းကို ဆရာတော်က ထပ်လောင်း၍ ရှင်းပြနေပါသည်။

## သီလဟာ ဖြည့်ကျင့်ဖို့ကောင်း

ထို့နောက် ဆက်လက်၍ မိန့်ပြန်ပါသေး၏၊ "ဝေနေယျသတ္တဝါဆိုတာ ဘယ်မှာ ပြည့်စုံပြီးသား လာလိမ့်မှာလဲ, တရွေ့ရွေ့ ပါရမီရင့်အောင် ကျက်အောင် ဆည်းပူးကြရတာပဲ၊ ဥဃဋိတညူ, ဝိပဉ္စိတညူ, နေယျဆိုတဲ့ ပုဂ္ဂိုလ်တွေလဲ ပါရမီကို တရွေ့ရွေ့ ဆည်းပူးလာခဲ့လို့ ရင့်လာကြတာပဲ၊ ရင့်လာလို့ ဖြစ်လာတာပဲ။

ပဒပရမဆိုတာက အဲဒီလောက်ထိအောင် မရင့်သေးလို့ ပဒပရမ ဖြစ်နေတာပဲ၊ နောက် ဖြစ်လာမယ့် သူက မျှော်လင့်ချက်ရှိတဲ့ပုဂ္ဂိုလ်ပဲ။

ဒါကြောင့် ဦးပဥ္စင်းတို့ ကိုရင်တို့...သီလလုံခြုံကြပါ, ပါရမီကို တရွေ့ရွေ့ ရင့်လာအောင် ဖြည့်ကြပါ၊ သီလဟာ ဘယ်လောက် ဖြည့်ကျင့်ဖို့ ကောင်းသလဲ ဆိုရင် ခဏကလေး စောင့်ထိန်းတာတောင် နတ်ပြည်ရောက်ကုန်ကြတဲ့ သူတွေ ရှိတယ်။

သတ္တုလ္လပနတ်တွေဆိုတာ သူတို့ ကိုယ်တိုင် ကိုယ်တွေ့ အဖြစ်အပျက်တွေကို ဘုရားထံ လာလျှောက်ကြတာ။"

## ကိုယ်တွေ့အဖြစ်နဲ့ ထောက်ခံ

* "တစ်ခါတုန်းက သင်္ဘောသား ၇၀၀ လောက် ပင်လယ် သမုဒ္ဒရာထဲမှာ မုန်တိုင်း မိကြတယ်၊ သင်္ဘောကြီးစောင်းပြီး မြုပ်တော့မယ်လုပ်တော့ အားလုံး ပွက်လောရိုက်ကုန်ကြတော့တယ်၊ ကယ်ပါ ယူပါ တစာစာနဲ့လဲ အော်ကုန်ကြတော့တာပေါ့၊ အဲဒီထဲက တစ်ယောက်သောသူကတော့ မအော်ဘူးတဲ့၊ မကြောက်သလိုပဲ အေးအေးဆေးဆေးနဲ့ နေတယ်၊ ဒါနဲ့ ဝိုင်းမေးကြတော့တာပေါ့၊ ဒီတော့ သူက ပြောတယ် "မကြောက်ပါဘူးတဲ့၊ ဘာလို့လဲဆိုတော့ သင်္ဘောထွက်ခါနီးမှာ သူက သံဃာတော်များထံမှာ သရဏဂုံနဲ့ ငါးပါးသီလဆောက်တည်လာခဲ့သတဲ့၊ ဒါကြောင့် မကြောက်ပါဘူး"တဲ့၊ "အဲဒီ သီလတွေကို ကျုန်တော်တို့ကိုလဲ ပေးလို့ မရဘူးလား"လို့ မေးကြတော့ "ရပါတယ်"ဆိုပြီး အားလုံးကို တစ်ရာစီ တစ်ရာစီ ခုနစ်သုတ်ခွဲပြီး သူက ရှေ့က တိုင်ပေးတယ်၊ အားလုံး နောက်က လိုက်ဆိုပြီး သီလဆောက်တည်ခိုင်းတော့တာပဲ။

သင်္ဘောကြီးလဲ မုန်တိုင်းကြောင့် မဟာန်နိုင်လို့ ယိမ်းထိုးပြီး နစ်မြုပ်သွားတော့ အဲဒီ သီလတွေနဲ့ သေကြတဲ့အတွက် တစ်ခါတည်း တာဝတိံသာနတ်ပြည်ကို အားလုံးပဲ ရောက်ကုန်ကြရတယ်။

နောက် အဲဒီ နတ်တွေက ဘုရားထံကို လာပြီး "သီလရဲ့ အကျိုးဟာ သူတို့ ကိုယ်တွေ့ပဲ" ဆိုပြီး ထောက်ခံ လျှောက်ထားသွားကြတယ်။

* သဂါထာဝဂ္ဂအဋ္ဌကထာ၊ ၄ - ၅၂။

## နေ့ကို စောင့်က နေဖို့ရ၏

"တခြား အဖြစ်အပျက်တွေကလဲ ရှိသေးတယ်၊ အများကြီးပါပဲ၊ တစ်နေရာမှာဆိုရင် ညဥ့်တစ်ဝက်မျှ စောင့်ထိန်းရတဲ့ သီလကြောင့် အင်မတန် တန်ခိုးကြီးတဲ့ ရုက္ခစိုးနတ်မင်းကြီးဘဝကို ရတယ်ဆိုတာလဲ ရှိတယ်၊ စောင့်ထိန်းသလောက် အကျိုးရတာပဲ။

တစ်ခါတုန်းကတော့ သူဌေးကြီးတစ်ဦးအိမ်မှာ အလုပ်လုပ်ရတဲ့သူပါ၊ သူက တစ်နေ့လုံး ယာတောကို သွားပြီး အလုပ်လုပ်နေရတော့ ဒီကနေ့ ဥပုသ်နေ့မှာ တစ်အိမ်လုံး ဘုရားကျောင်းကို သွားပြီး ဥပုသ်စောင့်ကြတာ သူမသိဘူး။

ညနေ ပြန်လာတော့မှ သိတော့ သူလဲ "ညပိုင်းမှာ ဥပုသ်စောင့်မယ်"ဆိုပြီး စောင့်တယ်၊ အဒါလဲ အများကြီး အကျိုးရတာပဲ၊ နေ့စောင့်ရင် နေ့ဖို့ရတယ်၊ ညစောင့်ရင် ညဖို့ရတယ်၊ နေ့ရော ညပါ စောင့်ရတော့ မပြောနဲ့တော့။

လူတွေက လူ့သီလ စောင့်ကြသလို သာမဏေတို့ကလဲ ကိုယ့်ဆိုင်ရာသီလ စောင့်ကြရမှာပေါ့"

ဤသို့လျှင် ဆရာတော်က အားရစဖွယ်ကြီးတွေ ဩဝါဒပေးတတ်ပါသည်။

**ပဉ္စသီဥပုသ်, မယုတ်အားကြီး, ဤကျင့်ရိုးကား, ကောင်းကျိုးကုသိုလ်, မကင်းလိုတည့်၊ နေ့ကို စောင့်က, နေ့ဖို့ရ၏၊ ညလည်းထို့တူ, မှတ်လေမူလော့၊ ဆယ်ဆူသီလ, နိယမလည်း, ကာလပိုင်းခြား, နေ့ရက်အားဖြင့်, မမှားမှန်လှ, စောင့်အပ်စွရှင့်။**

**(မဃဒေဝ-မှ)**

## သူက မအိုဘဲ တပျိုတည်း ပျိုနေတတ်တယ်

### စိတ်ကြီးဝင်အောင် ကြိုးစားကြ

"အားလုံး ဘုန်းကြီးတို့ရော, ဩဝါဒနာဖို့ လာကြတဲ့ ဒါယကာ ဒါယိကာမတွေရော ကိုယ့်စိတ် ကိုယ်စစ်ကြပါ၊ စိတ်ထား ငယ်မနေကြစေနဲ့၊ "ငယ်မနေကြစေနဲ့"ဆိုတာ "သေးသိမ်မနေကြစေနဲ့"လို့ ဆိုလိုတာ၊ စိတ်ကြီးဝင်ကြပါစေ, "စိတ်ကြီးဝင်"ဆိုတာ မြင့်မြတ်တဲ့, အထက်တန်းကျတဲ့ စိတ်ကြီးမျိုး ဝင်ပါစေလို့ ဆိုလိုတာ၊ လူတွေဟာ တရွေ့ရွေ့နှင့် အသက်တွေက ကြီး ကြီးလာတယ်၊ တစ်နှစ်ကုန်မှ တစ်ခါကြီးတာ မဟုတ်ဘူး၊ နေ့စဥ်နှင့်အမျှ နာရီ မိနစ် စက္ကန့်မလတ် ကြီး ကြီး နေတယ်၊ အို အိုလာကြတယ်လို့ ဆိုလိုတာပေါ့လေ၊ အသက်တွေက ကြီး, ခန္ဓာတွေက အိုလာသလောက် စိတ်ကောင်း စေတနာကောင်းတွေ စုမိဖို့, ကုသိုလ်ပါရမီတွေ များလာဖို့ လိုတယ်။

အမှတ်တမဲ့ နေကြရင်, စိတ်ဓာတ်ကို မြင့်မားအောင် တမင် မပြုပြင်ရင် လူဟာ ဘယ်လောက်ပဲ ကြီးကြီး "လူသာကြီးတယ်, အချိန်မစီးဘူး"ဆိုတာလို ဖြစ်တတ်တယ်၊ လူကတော့ ဆံပင်တွေ ဖြူ, နားတွေအူ, ခါးတွေ ကိုင်း, မျက်စိတွေ မှိုင်း ဖြစ်ကုန်ပေမယ့် စိတ်ဓာတ်က ရင့်ကျက်ပြီး လိုက်မလာဘူး ဖြစ်နေတတ်တယ်"။

### နွားကလေးရဲ့ဦးချိုလိုပဲ

ယနေ့ နံနက် ဩဝါဒကို ဆရာတော်က ဤသို့ နိဒါန်းပျိုး၍ ချီနေသည်၊ မည်သည့်အကြောင်းအရာကို မိန့်လိုသည် မသိ, ဆက်လက်၍ မိန့်နေပြန်သည်။

"စာထဲမှာ သိပ်မှန်ကန်တဲ့ စကားလေး တစ်ခွန်း ဆိုထားတာ ရှိတယ်၊ လူတွေရဲ့ ခန္ဓာကိုယ်အစိတ်အပိုင်းတို့ဟာ အိုမင်းကြ, ယိုယွင်းကြပေမယ့် တဏှာဆိုတဲ့ သဘောကလေးကတော့ မအိုဘူးတဲ့။

နွားကလေးပေါက်စရဲ့ ဦးချိုလိုပဲ တဖြည်းဖြည်း ရှည်၍ ရှည်၍ တရွေ့ရွေ့ ပျိုပျိုနေတတ်တယ်တဲ့၊ ဒါကို...

**"ဇီရန္တိ ဇီရတော ကေသာ,**
**ဒန္တာ ဇီရန္တိ ဇီရတော၊**
**ဇီရတော စက္ခုသောတာ စ,**
**တဏှေကာ တရုဏာယတေ"** လို့

(ပဉ္စတန္တရမှာ)ဆိုထားတယ်၊ တော်တော်ဟုတ်တဲ့ စကားပဲ"။



ပါရမီဝိဇ္ဇာတာရုံကျောင်းတွင် သိမ်သုံမှတ်စဉ်က



ဆရာတော်၏ ကျမ်းစာများ ရိုက်ရာတွင်
အကူအညီ များစွာပေးခဲ့သော ဦးလှမောင်

## သူ့အဓိပ္ပာယ်အနက်က

ဇိယျတော (ဇိယျန္တသ)-လူအိုကြီး၏၊ ကေသာ-ဆံပင်တို့သည်၊ ဇီယန္တိ-ဖြူဖြူဖွေးဖွေးနှင့်, အိုသွေးပေါက်ကြလေကုန်၏ တဲ့။ ဇိယျတော (ဇိယျန္တသ)-လူအိုကြီး၏၊ ဒန္တာ-သွားတို့သည်၊ ဇီယန္တိ-ယိမ်းယိုင်ရွဲ့ခွေ, နှုံကြ နဲ့ကြလေကုန်၏။ ဇိယျတော (ဇိယျန္တသ)-လူအိုကြီး၏၊ စက္ခုသောတာ စ-မျက်စနှင့်နားတို့သည်လည်း၊ ဇီယန္တိ-သဲသဲကွဲကွဲ မကြား, မဲမဲ မဲမဲနှင့် သွားသလို, မှုန်ဝါးဝါး ဖြစ်ကြလေကုန်၏ တဲ့။ ဇဝံ တထာပိ-သို့ကလို ရွတ်တွယွင်းယို, တစ်အိုတည်းအိုကြပါကုန်သော်လည်း၊ ကော တဏှာ-တစ်ခုသော အရာ, မက်မောတွယ်တာတတ်တဲ့ တဏှာဆိုတဲ့ သဘောတစ်ခုသည်ကား၊ တရုဏာယတေ-ဘယ် အခါမျှ မအို, ပျိုသည်ထက် ပျို, စိုသည်ထက် စိုရွှမ်းလျက်, အမြဲတမ်းလန်းဆန်း၍ နေတတ်လေသည်တကား...တဲ့။ အဲတော်ဟုတ်တဲ့စကား, ဒါကြောင့်လဲ ခက်နေတတ်ကြတာပဲ, ဒီတဏှာပဲ ဒုက္ခပေးနေတာ၊ ဘဝတစ်ခုပြီး တစ်ခု ဖြစ်အောင်လုပ်နေတာလဲ ဒီတဏှာပဲ။

ဘုရားကိုယ်တော်မြတ်ကဆိုရင် "ဘဝတစ်ခုပြီး တစ်ခုဖြစ်အောင်လုပ်နေတာ ဘယ်သူလဲ"လို့ လိုက်ရှာခဲ့တာ, မတွေ့ခဲ့ဘူး၊ သဗ္ဗညုတဉာဏ်ကြီး ရမှပဲ တွေ့တော့တယ်တဲ့၊ ဒီတဏှာပဲ၊ အဲလို ဒုက္ခပေးတတ်တဲ့ သဘောပဲ။" ဤသို့လျှင် ဆရာတော်က ဟောပြ ဩဝါဒ ပေးတော်မူဖူးပါသည်။

# ရွှေကျင်(ဒုတိယ)သာသနာပိုင် တင်မြှောက်ခံရခြင်း

## ရွှေကျင်ဂိုဏ်း၏ အစဉ်အလာတစ်ရပ်

မြန်မာပြည်သာသနာ၌ ယခုအခါတွင် အသိအမှတ်ပြုခံရသော ဂိုဏ်းကြီး ၉ ဂိုဏ်းရှိ၏၊ သုဓမ္မာ, ရွှေကျင်, ဒွါရ စသည်တို့ ဖြစ်သည်၊ ထိုတွင် ရွှေကျင်ဂိုဏ်း သာသနာ ရပ်တည်လာခဲ့ပုံမှာ မိမိတို့ဂိုဏ်း၌ ခမာ ဇာဂရိယ စသော နာယကဂုဏ် ၆ ပါး, ပိယ ဂရုဘာဝနီယ စသော ဂဏာစရိယအင်္ဂါ ၆ ပါး၊ မေတ္တာကာယကံ စသော သာရဏီယစည်းမျဉ်း ၆ ပါး, အပ္ပိစ္ဆတာ စသော ကထာဝတ္ထု ၁၀ ပါး, သီလ သုတ စသော ပသာဒနီယ အရည်အသွေး ၁၀ ပါး စသောအားဖြင့် ထူးခြားသော ဂုဏ်အင်္ဂါတို့နှင့် ပြည့်စုံသည့် မထေရ်ကြီးကို ဂိုဏ်း၏ အကြီးအကဲ ဥက္ကဋ္ဌနဟာနာယက (သာသနာပိုင်)အဖြစ် ဂိုဏ်းလုံးကျွတ် အစည်းအဝေးကြီးများ ကျင်းပ၍ တင်မြှောက်ရသော အစဉ်အလာတစ်ရပ် ရှိ၏၊ ထိုအစဉ်အလာဖြင့် သာသနာပိုင်၏ အုပ်ချုပ်မှုကို ခံယူကာ နိကာယ တစ်ခုလုံး လိုက်နာရလေသည်၊ အဦးဆုံး (ရွှေကျင်သာသနာပိုင်) ဆရာတော်ဘုရားမှာ ဂဏသမုဋ္ဌာပက,ဂဏနာယက, ဂဏာဓိပတိ, ဂဏပရိဏာယက, ဂဏပိတာ ဖြစ်တော်မူသော ပထမရွှေကျင်ဆရာတော်ဘုရားကြီးပင် ဖြစ်တော်မူ၏။

ဆရာတော်ဘုရားကြီး၏ အုပ်ချုပ်မှုအောက်တွင် အားလုံး ကျင့်သုံးနေထိုင်လာခဲ့ကြသည်။

ဤသို့သော ဓမ္မတာ, ဤသို့သော ကျင့်စဉ်တို့မှာ ဇာတ်တော်များ၌လာသော ရှေးသူတော်ကောင်း သူမြတ်လောင်းတို့၏ ထုံးဟောင်းနှင့်လည်း ညီညွတ်လေတော့၏။

* ယေ ဝုဍ္ဍမပစာယန္တိ,
နရာ ဓမ္မဿ ကောဝိဒါ၊
ဒိဋ္ဌေ ဓမ္မေ စ ပါသံသာ,
သမ္ပရာယေ စ သုဂ္ဂတိ။

ပြဆိုခဲ့ပြီးသော ဂုဏ်အင်တို့နှင့် စုံလင်သည့် ပုဂ္ဂိုလ်ကို ကြည်ညိုလေးစား အရေးထားကြပါလျှင် ယခုဘဝတွင်လည်း ချီးမွမ်းစရာ, နောင်တမလွန်များတွင်လည်း နည်းလမ်းသာ၍ ချမ်းသာသုခ ကောင်းသည့် ဘဝကို ရရှိနိုင်ကြ၏။

---

* ဝိ ၊ ၄ ၊ စူဠဝါ - ၃၁၀။

## သာသနာပိုင်အဆက်ဆက် တင်လာခဲ့

ပထမရွှေကျင်သာသနာပိုင် ဆရာတော်ဘုရားကြီး ပျံလွန်တော်မူသောအခါ တပည့်ကြီးဖြစ်သော မဟာဝိသုဒ္ဓါရုံ ဆရာတော်ဘုရားကို အားလုံးသော ရွှေကျင်နိကာယဂိုဏ်းဝင် ကိုယ်စားလှယ် သံဃာတော်အရှင်မြတ် တစ်ထောင်ကျော်တို့က ဝိုင်းဝန်း၍ "သာသနာပိုင်"အဖြစ် တင်မြှောက်တော်မူကြသည်။

ဤနည်းဖြင့် အဆက်ဆက် တင်မြှောက်၍ လာခဲ့ကြရာ မြောင်းမြဆရာတော်ဘုရားကြီးမှာ ဒသမမြောက် သာသနာပိုင်ဆရာတော် ဖြစ်လာခဲ့သည်၊ ဤသို့ တစ်ဂိုဏ်းလုံး၏ အကြီးအကဲ ဥက္ကဋ္ဌ, တစ်ဂိုဏ်းလုံး၏ လေးစားမှု ခံယူရဖို့မှာ လွယ်ကူသော ဂုဏ်အင်္ဂါ မဟုတ်ပါချေ၊ အခက်ခဲဆုံး ဂုဏ်အင်္ဂါဟူ၍ပင် ဆိုရမည်ကဲ့သို့ ဖြစ်၏၊ အဘယ့်ကြောင့် ဆိုသော် ရွှေကျင်နိကာယဝင် သံဃာတော် တစ်သောင်းကျော်တို့၏ လေးစားမှုကို ခံရမှ ဖြစ်လာနိုင်သော သံဃသမ္မုတိသာသနာပိုင် ဖြစ်သောကြောင့် ပေတည်း၊ ရှင်ဘုရင် အစိုးရတို့က ခန့်အပ်သော သာသနာပိုင်မျိုးနှင့် မတူချေ။

ဤသို့အားဖြင့် လာခဲ့ရာ ၁၃၃၇ ခု တန်ဆောင်မုန်းလပြည့်တွင် ပဲခူးမြို့ ကြခတ်ဝိုင်းကျောင်းတိုက်ကြီး၌ ဂိုဏ်းလုံးကျွတ် သံဃာ့အစည်းအဝေးပွဲကြီး ကျင်းပတော်မူကြ၏၊ "မည်သည့်ဆရာတော်ကို တင်ကြလေမည်နည်း၊ မန္တလေးမြို့ကလား, နယ်ကဖြစ်မလား, အထက်ကလား, အောက်ပိုင်းကလား, ဘယ်ဆရာတော် ဖြစ်မည်လဲ" ဤသို့ သိလိုရေးနှင့် တစ်မေးတည်း မေးနေကြ၏။

## ဆရာတော်၏သဘောထား

ဆရာတော် အရှင်ဇနကာဘိဝံသကမူ အစည်းအဝေးပွဲ အကြိုရက်တွေတုန်းက ပြန်လာသော သတင်းအရ အတော်အတန် သိထားနှင့်သည်၊ ဂိုဏ်းလုံးကျွတ် အစည်းအဝေးပွဲကြီးတွင် (ပထမသာသနာပိုင်)နှင့် အရံအနေဖြင့် (ဒုတိယသာသနာပိုင်) ဆရာတော်များ ရွေးချယ်ကြမည်၊ ထိုစာရင်းတွင် အရှင်ဇနကာဘိဝံသကိုလည်း တစ်နေရာရာတွင် ထည့်သွင်းမည်ဟု ကြားထား၏။

ထို့ကြောင့် မန္တလေး ဝိသုဒ္ဓါရုံတိုက်သစ်မှ (သူ့တူတော်မောင် အရင်း) ဦးကောဏ္ဍညာဘိဝံသကို မှာထားသည်။ "ငါ့ကို ဥက္ကဋ္ဌတင်ရင် မင်း ကန့်ကွက်ရမယ်၊ မတင်စေနဲ့၊ ငါ ဘာမှ မလုပ်ချင်ဘူး၊ ဒုတိယသာသနာပိုင်လဲ မလုပ်ချင်ဘူး, အစည်းအဝေးပွဲကိုလဲ ငါမလိုက်ဘူး"ဟူ၍ ဖြစ်၏။

ဤသတင်းကို ကြားသောအခါ တာဝန်ဆောင်ပုဂ္ဂိုလ်များက ဆရာတော်အား လာ၍ လျှောက်ကြ၏၊ "အစည်းအဝေးကို နေ့တိုင်း မတက်ချင် နေပါ၊ တစ်ရက်တလေပဲ ဖြစ်ဖြစ် တက်ပါဦးဘုရား, ညတရားပွဲ အစီအစဉ်များမှာလဲ ဆရာတော့်တာဝန် တစ်ရက် ပါပါတယ်ဘုရား"ဟု လျှောက်ကြသဖြင့် တရားဟောရမည့် ညမှာ တာဝန်ကို ကျေပွန်အောင် လာ၍ ထမ်းဆောင်သွားတော်မူသည်။

ဤကိစ္စနှင့် ပတ်သက်၍ တစ်ခါက နံနက်ခင်း ဩဝါဒပေးရင်း အောက်ပါအတိုင်း မိန့်ဖူး၏။

"ယခုနေအခါ ငါ့ကို ရွှေကျင်သာသနာပိုင် လုပ်မလားလို့ မေးရင် "မလုပ်ချင်ဘူး"လို့ ဖြေမှာပဲ၊ ဘာလို့လဲဆိုရင် နယ်ကျဉ်းလို့ပါပဲ။

အဲ...တစ်သာသနာလုံးရဲ့ သာသနာပိုင် လုပ်မလား, ပြီးတော့ သာသနာတော်ကြီးကို ပြုပြင်နိုင်တဲ့ အာဏာလဲ အပြည့်အဝ ရှိတယ်ဆိုရင်တော့ လုပ်ချင်တယ်။

ဘာလို့လဲ?...

သာသနာတော်ကြီးကို စိတ်ကြိုက် စိတ်တိုင်းကျ ပြုပြင်ချင်လို့ပါပဲ။

ဂုဏ်လိုချင်လို့ မဟုတ်ပါဘူး"ဟူ၍ ဖြစ်သတည်း။

## ပဲခူး၌ဟောသောတရား

ဤသို့ဖြင့် အစည်းအဝေးပွဲကြီးရက်သို့ ရောက်လာခဲ့တော့သည်၊ အစည်းအဝေးပွဲကြီးတွင် ဆွေးနွေးကြ၊ တိုင်ပင်ကြ၊ အဆိုတင်သွင်းကြ၊ ထောက်ခံကြနှင့် ဆိုင်ရာ ဝန်ဆောင်ပုဂ္ဂိုလ်တွေမှာ အလုပ်တွေမအားအောင် ဖြစ်နေကြသည်၊ ဆရာတော်ကား ထိုကိစ္စတွေ ဘာမျှ မသိ, သိအောင်လည်း မလေ့လာခဲ့၊ ဤသို့ဖြင့် သူတရားဟောရမည့် ညတွင် ပလ္လင်ပေါ်သို့ ရောက်လာခဲ့၏။

"ဆရာတော် အရှင်ဇနကာဘိဝံသ တရားဟောမည်"ဆိုသဖြင့် ပရိသတ်ကြီးသည် အထူးစည်ကားလှ၏၊ ကြခတ်ဝိုင်းကျောင်းတိုက်ကြီးအတွင်းမှာပင် သံဃာတော် တစ်ထောင်ကျော်ဆံ့သော ဓမ္မာရုံကြီးမှာ ပြည့်လျှံသွားတော့သည်၊ အပြင်ဘက်တွင်လည်း အတွင်းလောက်မက (လူရော ရဟန်းပါ) ပရိသတ်ကြီး ပြစ်ခဲနေ၏၊ အထူးစိတ်ဝင်စားကြသည်။

ထိုညက တရားနိဒါန်းမှာ ဤသို့ ဖြစ်၏၊ ... "ပဲခူးရွှေကျင်ဂိုဏ်းကို တောဂိုဏ်းလို့ ခေါ်ပါတယ်၊ "တောဂိုဏ်း"ဆိုတာ ပဲခူးဆရာတော် ဦးသီလနှင့်အတူ တောထဲမှာ တောရဆောက်တည်၍ သီတင်းသုံးတော်မူကြသော ဘုန်းတော်ကြီးများကို အစွဲပြုပြီး ဖြစ်ပေါ်လာတဲ့ နာမည်ပါ၊ ဆရာတော် ဦးသီလကို (ဘုန်းတော်ကြီး ဦးသီလလို့) အသိများကြပါတယ်၊ အကျင့်သိက္ခာဘက်မှာ သူမတူအောင် နာမည်ကြီးလှပါတယ်၊ အဲဒီနောက် အထက်အညာဒေသက ရွှေကျင်ဆရာတော်ဘုရားကြီးရဲ့ ဂိုဏ်းနဲ့တွေ့၍ သဘောတူလို့ ပေါင်းပြီး "ရွှေကျင်ဂိုဏ်းတောဂိုဏ်း" လို့ ခေါ်ကြတာပါ။

ဒါကြောင့် ယခုအခါမှာ သာသနာတော်၌ အကျင့်စာရိတ္တဘက်က အလွန်လျှောကျနေပြီဖြစ်တဲ့အတွက် ပဲခူးမြို့နယ် စသော အောက်ပြည်ဂိုဏ်းဝင် သံဃာတော်အရှင်မြတ်တို့ကလဲ ရွှေကျင်ဆရာတော်ဘုရားကြီးနီးနီး သီလသိက္ခာကြီးဖို့ ကြိုးစားသင့်ကြပါတယ်"စသည်ဖြင့် သံဃာတော်များအား လျှောက်ထားရင်း ဟောကြားပါတော့၏။

## ဝေဖန်မှုနှင့်ပွဲတင်သံများ

ထို့နောက်တွင်ကား ရှင်ရေလူပါ သိက္ခာမရှိကြလို့, ကိုယ်ကျင့်သီလတွေ ပျက်ကြလို့ ပြိတ္တာဘဝမှာ ဖြစ်ကြရပုံတွေ, တမလွန်ဘဝမှာ ဆင်းရဲဒုက္ခရောက်ကြပုံတွေကို (စာလာ ပေလာသာမက) တချို့ပုဂ္ဂိုလ်တွေ ကိုယ်တိုင် တွေ့ကြရသည့် လက်တွေ့သာဓကဝတ္ထုများကိုပါ တင်ပြပြီး ဟောကြားတော်မူ၏။

အမြင်အကြားပေါက်သော ဆရာတော်တစ်ပါး၏ ပြောပြချက်အရ ရှေးမြန်မာရှင်ဘုရင်များလက်ထက်က ရာဇဂုရုဆရာတော်တချို့ပင် ပြိတ္တာဘဝ၌ ဖြစ်နေရသည်ကို တွေ့မြင်ရကြောင်း, ထို့ကြောင့် ယခုခေတ် အဂ္ဂမဟာပဏ္ဍိတများလဲ သီလသိက္ခာ မစင်ကြယ်လျှင် ထိုရာဇဂုရုဆရာတော်များလမ်းသို့ မြန်းရဖို့ရှိကြောင်း စသည်ဖြင့် သတိပေးလျှောက်ထားရင်း ဟောကြားတော်မူသည်။

တရားနောက်ပိုင်းတွင်မူ "ခယံ ဝိရာဂံ အမတံ ပဏီတံ" ဂါထာအတိုင်း နိဗ္ဗာန်၏ အကြောင်းကို ကျယ်ကျယ်ပြန့်ပြန့် ဟောတော်မူ၏၊ ထိုအခါ ပရိသတ်ကြီးမှာ အလွန်ငြိမ်သက်စွာဖြင့် နာယူနေကြပါသည်၊ စောစောကမူ အချို့က ဤသို့ မှတ်ချက်ချကြ၏၊ "ဆရာတော် ဦးဇနက-ဦးဇနကနဲ့ နာမည်ကြီးလွန်းလို့ လာနာတာ၊ တကတဲ ဟောလိုက်တော့ တစ္ဆေအကြောင်း, သူရဲအကြောင်း, ပြိတ္တာအကြောင်းတွေချည်းပဲ"တဲ့၊ ဤသို့ ကိုယ်ထင်ရာ မြင်ရာကို ဆွဲ၍ ခပ်မြန်မြန် ဝေဖန်လိုက်သူများလည်း ရှိကြ၏၊ နောက်ဆုံး လိပ်ပတ်လည်၍သွားသောအခါကား ပရိသတ်အားလုံး ရွှင်ပြုံးကျေနပ်သည့် လက္ခဏာအသွင်ကို တွေ့ကြရပါတော့သည်။

တရားဟောပြီး၍ အပြင်သို့ ထွက်လာသောအခါတွင်ကား ဆရာတော် အရှင်ဇနကာဘိဝံသကို အနီးကပ် မမြင်ဘူးကြ၍ ပရိသတ်ကြီးက သူ့ထက်ငါ တိုးဝေ့ ကြည့်ကြသည်၊ သွားရာလမ်းတွင် ရှေ့က ပိတ်ကာ ထားပြီး လက်အုပ်ချီ ဦးတိုက်နေကြသည်မှာ မပြီးနိုင်အောင် ရှိကြတော့၏၊ ဆရာတော်ကလည်း ပရိသတ်ကြီးတစ်စုလုံး ခြုံငုံ၍ မေတ္တာတွေ များစွာပို့လိုက်ရသည် ဆို၏၊ ဦးတိုက်နေကြသည့် ကြားမှ တရွေ့ရွေ့ တိုးထွက်လာခဲ့ရာ ခပ်လှမ်းလှမ်းမှ ပရိသတ်ကြီးထဲက အသံတစ်သံက အော်၍ ပြော၏။

"ပရိသတ်ကြီးခင်ဗျား, ကျွန်တော် အလှည့်မရသေးပါဘူး၊ အဲဒီဆရာတော်ကို ရှေ့တိုးမသွားအောင် ဖက်ထားလိုက်စမ်းပါ"ဟူ၍ ဖြစ်သတည်း။

## သာသနာပိုင် ဖွတ်တင်ထားကြ၍

ဆရာတော်ကား တရားဟောပြီးလျှင် သူ့တာဝန် ကျေပွန်ပြီဖြစ်၍ (အစည်းအဝေးကြီး ပြီးစီးအောင် မနေဘဲ) နောက်တစ်ရက်မှာ ပြန်ခဲ့လေသည်၊ ပဲခူးသို့ ကြွလာစဉ်ကလည်း (အစည်းအဝေးကြီး ကျင်းပရာ) ကြခတ်ပိုင်းကျောင်းတိုက်ကြီးမှာ မတည်းခိုပေ၊ သူ့ တပည့်ကလေး အရှင်စန္ဒောဒယ နေထိုင်ရာ ရွှေဂူ ကျောင်းတိုက်မှာ တည်းခိုခဲ့သည်။

ဟပည့်ကလေးက အစစ အရာရာ ချမ်းသာ အောင် ပြုစုပေးခဲ့၏၊ အရှင်စန္ဒောဒယကလေးကား ကိုရင်ကလေးဘဝမှ စ၍ တစ်ချိန်၌ အမရပူရ မဟာ ဂန္ဓာရုံမှာ ဆရာတော်ကြီးအား အမြဲထာဝရဝေယျာ ဝစ္စ ပြုလာခဲ့ဖူးသူ ဖြစ်သည်။

အစည်းအဝးပွဲကြီးကား အစီအစဉ်အရ နေ့စဉ် နေ့တိုင်း ကျင်းပလျက်ရှိ၏၊ အားလုံးကိစ္စ စီစဉ်ပြီး သောအခါ ရွှေကျင်ဂိုဏ်းကြီး၌ ဥက္ကဋ္ဌ(သာသနာပိုင်) ရွေးကောက်တင်မြှောက်ဖို့အဆင့် ရောက်လာတော့ ၏၊ ထိုအခါ မန္တလေးမြို့ အရှေ့ပြင် မဟာဝိသုဒ္ဓါရုံ တိုက်အုပ်၊ သက်တော် ကိုးဆယ်ကျော် ဆရာတော် ဘုရားကြီးကို ရွှေကျင်ဂိုဏ်း၏ အကြီးအကဲဥက္ကဋ္ဌ (သာသနာပိုင်) အဖြစ် အများ သဘောတူ ရွေး ကောက် တင်မြှောက်လိုက်ကြသည်။

ထို့နောက် ဥပဥက္ကဋ္ဌ (ဒုတိယသာသနာပိုင်)များ အဖြစ် ရွေးကောက် တင်မြှောက်ကြသောအခါ အခြား ဆရာတော် သုံးပါးအပြင် ဆရာတော် အရှင် ဇနကာဘိဝံသကိုလည်း တစ်ပါးအပါအဝင်အဖြစ် ထည့်သွင်း၍ တင်မြှောက်လိုက်ကြသည်။

ထိုအခါ တာဝန်ပေးထားချက်အရ (တူတော် မောင်) ဦးကောဏ္ဍညာဘိဝံသက ကန့်ကွက်ရပါ တော့၏၊ "သာသနာပိုင်စာရင်းထဲ မထည့်ပါနှင့်၊ ပြန် နုတ်ပေးပါ"ဟု ဆိုင်ရာတို့အား ပြောသောအခါ ဆိုင်ရာတို့က "အနုတ်မခံနိုင်" ဟု ဆိုပါသတတ်၊ ဤနည်းအားဖြင့် ဆရာတော် အရှင်ဇနကာဘိဝံသ မှာ (သက်တော် ၇၆ နှစ်ထဲ၌) ရွှေကျင်ဂိုဏ်းကြီး၏ ဒုတိယသာသနာပိုင် ဖြစ်၍လာခဲ့တော့သည်။

## သိမ်သမုတ်တော်မူခြင်းများ

### ဝိဇ္ဇောတာရုံ သိမ်သမုတ်ရန်

ပဲခူးမြို့တွင် ရွှေကျင်ဂိုဏ်းလုံးကျွတ် အစည်း အဝေးကြီးသို့ ဆရာတော် ကြွလာမည်ဟု သတင်း ရကြသောအခါ နီးစပ်ရာ တပည့်များအတွက် တစ် အားတက်ကြရတော့၏၊ ရန်ကုန်မြို့ ကမ္ဘာအေး ရေကူးရပ်တွင် ရှိသော ဝိဇ္ဇောတာရုံစာသင်တိုက်က သိမ်သမုတ်ချင်နေကြသည်။

စောစောပိုင်းက ဤသိမ်ကို "ဒသမမြောက် ရွှေကျင်သာသနာပိုင် မြောင်းမြဆရာတော်ဘုရား ကြီးကို အဦးထား၍ သမုတ်မည်"ဟု ရည်စူးထားခဲ့ ကြ၏၊ ဆရာတော်ဘုရားကြီးသည် ဤကျောင်းတိုက် ပိုင်ရှင် အရှင်ဝိဇ္ဇောတ၏ ငယ်ဆရာ ကျေးဇူးတော် ရှင် ဆရာတော်ဘုရားကြီးလည်း ဖြစ်၏။

ဆရာတော်ဘုရားကြီးကလည်း မိမိ၏ တပည့် ရင်းဖြစ်သော အရှင်ဝိဇ္ဇောတအား "သမုတ်ပေးမည်" ဟု အမိန့်ရှိခဲ့ဖူး၏၊ သို့သော် မသမုတ်နိုင်ခဲ့ပေ၊ အစီ အစဉ်များ မပြီးနိုင်သေး၍ သမုတ်ပွဲ မစနိုင်ခဲ့ခြင်း ဖြစ်သည်။

ယခုအခါတွင်ကား မြောင်းမြဆရာတော်ဘုရား ကြီးက ဘဝနတ်ထံ ပျံလွန်တော်မူချေပြီ၊ သို့ဖြစ်၍ ဆရာတော်ဘုရားကြီး မရှိလျှင် သူ၏ တပည့်ကြီး ဆရာတော် အရှင်ဇနကာဘိဝံသကိုပင် အဦးထား အားကိုးရပေတော့မည်၊ ထို့ကြောင့် "ပဲခူး အစည်း အဝေးကြီး မတိုင်မီ ကြိုတင်၍ ကြွရောက် ချီးမြှောက် ပါ"ဟု အထူး ပင့်လျှောက်ထားကြ၏။

## သုဝဏ္ဏနှင့် ဝိဇ္ဇောတာရုံသိမ်

ယင်းသို့ ပင့်လျှောက်ထားချက်အရ ၁၃၃၇ ခု တန်ဆောင်မုန်းလဆုတ် ၁ ရက်နေ့တွင် ရန်ကုန်သို့ ဆရာတော် အရှင်ဇနကာဘိဝံသ လေကြောင်းဖြင့် ကြွလာတော်မူ၍၊ ကျောက်ကုန်း မဟာဗောဓိ ကျောင်းတိုက်တွင် တည်းခိုတော်မူသည်။

တန်ဆောင်မုန်းလဆုတ် ၂ ရက်နေ့ နံနက်ပိုင်း တွင် သုဝဏ္ဏမြို့သစ်ကျောင်းမှ သိမ်ကို ဦးစွာသမုတ် တော်မူသည်၊ ယင်းကျောင်း၏ အကြီးအမျှူး ဦးစီး နာယက (အစိုးရဓမ္မာစရိယ) အရှင်ဉာဏိဿရ သည် ဆရာတော် အရှင်ဇနကာဘိဝံသ၏ တပည့် ရင်းပင် ဖြစ်သည်၊ အမရပူရ မဟာဂန္ဓာရုံကျောင်း တိုက်တွင် ပညာသင်ယူလာခဲ့ပြီးနောက် မကြာသေး မီကမှ ဤသုဝဏ္ဏမြို့သစ် စာသင်တိုက်ကို တည် ထောင်ခြင်း ဖြစ်၏။

သို့ဖြစ်၍ "တည်ခါစ ထောင်ခါစ, ဆရာတော် ဘုရားကြွ၍ ချီးမြှောက်ပါရန်" လျှောက်ထားချက် အရ ကိုယ်တော်တိုင် ကြွ၍ ချီးမြှောက်တော်မူခြင်း ဖြစ်သည်။

၁၃၃၇ ခု တန်ဆောင်မုန်းလဆုတ် ၃ ရက် (၁၀-၁-၇၄) ကြာသပတေးနေ့ နံနက်ပိုင်းတွင်ကား ရန်ကုန်မြို့ ကမ္ဘာအေး ရေကူးရပ်ရှိ ဝိဇ္ဇောတာရုံ စာသင်တိုက်အတွင်းက ဝိသုံဂါမသိမ်မြေကို ဗဒ္ဓသိမ် မြေအဖြစ် ကမ္မဝါဖြင့် ဖွဲ့တော်မူကြသည်၊ ဤကိစ္စကို ဦးစီးဆောင်ရွက်တော်မူပေးပါ"ဟု လျှောက်ထား ချက်အရ ကြိုတင်၍ ကြွလာတော်မူခြင်း ဖြစ်၏။

ထို့ပြင် စစ်ကိုင်းတောင်ရိုး ရွှေဟင်္သာချောင်, အဂ္ဂ မဟာပဏ္ဍိတ ရွှေဟင်္သာ ဆရာတော်ဘုရားနှင့် ညောင်တုန်းမြို့ ရွှေဟင်္သာတိုက်သစ် အဂ္ဂမဟာ ပဏ္ဍိတ ဆရာတော်ဘုရားတို့လည်း အားပေး ကြွရောက် ချီးမြှောက်တော်မူကြသည်၊ အားလုံး သံဃာတော် ၆၅ ပါးဖြင့် မြိုင်မြိုင်ဆိုင်ဆိုင် သိမ် သမုတ်တော်မူခဲ့ကြသည်။

## သိမ်ထဲ လူတွေနေကောင်းရဲ့လား

သိမ်သည် သာသနာတော်တွင် အရေးကြီး၏၊ အောင်အောင်မြင်မြင် သမုတ်ဖို့လိုသည်၊ အောင် အောင်မြင်မြင် သမုတ်ထားသော သိမ်သည် တစ် သာသနာလုံး သက်တမ်းရှည်၏၊ ထို့ကြောင့် ကျွမ်း ကျင်သော ဆရာတော်တို့ဖြင့် သမုတ်ကြရသည်။

သိမ်တစ်လုံးသည် ကမ္မဝါစာဖြင့် နုတ်၍ တမင် ပယ်ဖျက်ပစ်မှသော်လည်းကောင်း (သို့မဟုတ်) သာသနာတော်ကြီးကွယ်ပသွားမှသော်လည်းကောင်း ဤအကြောင်းများကြောင့်သာ ပျက်ပြယ်နိုင်သည်။

ထို့ကြောင့် သိမ်အသစ် သမုတ်လိုသောအခါ ရှေးက ဤနေရာ၌ သိမ်ဟောင်း ရှိလိုရှိငြား ရည်မှန်း ၍ (မူလသိမ်ဟောင်းနှင့် မရောအောင်) နုတ်နေရ ခြင်း ဖြစ်ပေသည်။

ဤသည်ကို နမူနာယူ၍ အချို့ပုဂ္ဂိုလ်များက မိမိ တို့ အိမ်သစ်ရာသစ် ဆောက်လုပ်ရာတွင် သိမ် ဟောင်းပေါ် မနေမိရန်ဟု ရည်ရွယ်ပြီး သံဃာတော် များဖြင့် သိမ်နုတ်ကမ္မဝါဖတ်တတ်ကြ၏၊ ဤကိစ္စမျိုး တွင် ဆရာတော်က ဤသို့ အမိန့်ရှိဖူးသည်။

"ဒီအိမ်ရာမြေပေါ် သိမ်နုတ်ပေးပါဆိုလို့ အိမ်ရှင် များ ကျေနပ်အောင်သာ ကမ္မဝါဖတ်ပေးရတာပါ၊ ဘုန်းကြီးအနေနဲ့ကတော့ အယူမရှိပါဘူး၊ သိမ်မြေ ပေါ်မှာ နေမိရင် ပိုပြီးတောင် အန္တရာယ်ကင်းဖို့ ဖြစ်ဦးမယ်၊ အခုလိုပြောရတာက ဘုန်းကြီးနောက် သံဃာတွေ ပါသေးတယ်၊ သူတို့က "တို့ ဆရာကြီးတို့ လုပ်ရိုးလုပ်စဉ်ပဲ"လို့ ထင်သွားမှာစိုးလို့ ပြောပြနေရ တာ၊ ရာဇဂြိုဟ်မြို့ကြီးရဲ့ ပတ်ပတ်လည်မှာ ကျောင်း တိုက်ကြီး ၁၈ ခု ရှိတယ်၊ အဲဒီ ကျောင်းတိုက်ကြီးတွေ နယ်နိမိတ်ကို ငုံပြီးတော့ (မြို့ကြီးကို အတွင်းထား ပြီးတော့)သိမ်ကြီး သမုတ်ထားတာပဲ၊ အရှင်သာရိ ပုတ္တရာ ဦးစီးပြီး သမုတ်တာ၊ အဲဒါဆိုရင် မြို့ကြီးဟာ သိမ်ထဲမှာပေါ့၊ ကျွဲနွားတိရစ္ဆာန်တွေနှင့်တကွ လူတွေ ဟာ ဒီသိမ်ကြီး အတွင်းမှာပဲ နေကြတာ၊ အညစ် အကြေး အိမ်သာတွေလည်း ဒီအထဲမှာပဲ, နောက် ဆုံး အိမ်ထောင်သားမွေးကိစ္စတွေလည်း ဒီအတွင်း မှာပဲ၊ ကဲ စဉ်းစားကြပါ။

သီဟိုဠ်မှာလဲ အနုရာဓမြို့ကြီးတစ်ခုလုံးကို ငုံခြုံ ပြီး သိမ်ကြီးအဖြစ်သမုတ်ထားတာပါပဲတဲ့၊ ဒါ့ကြောင့် သိမ်ထဲနေခြင်းကြောင့် အပြစ်မရှိပါဘူး၊ သံဃာများ ကံပြုတဲ့အခါ နှစ်တောင့်ထွာအတွင်းသို့သာ မဝင်ရ တာပါ"ဟု ဆရာတော်က အမိန့်ရှိဖူးသည်။

## သီလသာသနာဖြစ်ပါမှ ဘုရားကျေနပ်မှာ

### ဘုရားနှင့်စပ်လျှင် အမြတ်ချည်းပဲ

၁၃၃၇ ခု တပေါင်းလဆန်းလျှင်ပင် ဆရာတော်၏ သက်တော်မှာ ၇၇ နှစ်ထဲသို့ ဝင်လာ၏၊ ရာသီဥတုက ပူပြင်းရန် အားယူလာပြန်သည်၊ စာဝါများကို အချိန်မှန်မှန် ကြိုးစားပို့ချ ရေးသားလာခဲ့ရာ တပေါင်းလ အကုန်မှာ "ကထာဝတ္ထုပါဠိတော်, အဋ္ဌကထာနှင့် မူလဋီကာတို့ ပြီးစီးအောင်မြင်ခဲ့ပြန်လေ၏။

ရက်တွေ လတွေ နှစ်တွေက တရွေ့ရွေ့ ကြာညောင်း၍ အလိုလို ပြောင်းလာကြသလို ဆရာတော်၏ သာသနာပြုလုပ်ငန်းကျမ်းစာတို့ကလည်း အံ့မခန်းအောင် တစ်ခုပြီးတစ်ခု ပြီးလိုက်နေသည်မှာ ယခုအခါ တစ်ပုံတစ်ပင်ကြီးပင် ဖြစ်၍ နေချေပြီ။

အခြားအလုပ်တစ်ခုမှာ ကျောင်းတိုက်အတွင်းက စေတီတော်ကြီးကို ရွှေသက်န်းကပ်နေခြင်းပင် ဖြစ်၏၊ သင်္ကြန်မတိုင်မီ ပြီးစီးအောင် နှိုးဆော်နေတော်မူသည်၊ တချို့က ရွှေသက်န်းကပ်မှုကိစ္စ၌ (မိုးတွင်းကျလျှင်) မိုးထဲ ရေထဲပါသွားသဖြင့် သဒ္ဓါတရား တွန့်ချင်ကြ၏၊ ဆရာတော်မူကား "ဘုရားနှင့် စပ်လာလျှင် ဘာပဲဖြစ်ဖြစ် အမြတ်ချည်းပဲလေ"ဟု သဘောထားပြီးလျှင် **"အမြတ်ဆုံးဖြစ်သော မြတ်စွာဘုရားကို အမြတ်ဆုံးဖြစ်သော ရွှေဖြင့်သာ ပူဇော်ချင်ပါတယ်"**ဟု မိန့်တော်မူဖူးသည်၊ ထို့ပြင် မဟာဂန္ဓာရုံကျောင်းတိုက်အတွင်းက စေတီတော်ကြီးကို မွမ်းမံမှုနှင့် ပတ်သက်၍ ဆရာတော်က ဤသို့ စိတ်ဝင်စားဖွယ် အမိန့်ရှိဖူးသည်။

"စေတီတော်ကြီးကို ပြုပြင်မွမ်းမံလိုက်ရင် ရွှေချရင် ကျောင်းတိုက်မှာ တစ်မျိုးတစ်ဖုံ တိုးတက်သလို ဖြစ်ဖြစ်လာတယ်။

ဒါကို ဘုန်းကြီးက တိုးတက်အောင် တမင် လုပ်တာတော့ မဟုတ်ပါဘူး၊ အချိန်ကျလာလို့ ရွှေတွေလဲ ကုန်နေလို့ ပြုပြင်မွမ်းမံတာပါ"ဟူ၍ ဖြစ်သည်။

ဆရာတော်က သက်တော်ကြီးလာလေ ဉာဏ်ရင့်လာလေ, သဗ္ဗညုတဉာဏ်တော်ကြီးကို ပို၍ ကြည်ညိုလေ, ဘုရားကို ပို၍ လေးစားလေ ဖြစ်၏၊ ထို့ကြောင့် ဘုရားနှင့် စပ်လာလျှင် ဦးစားပေး၍ အလေးမြတ်ဆုံး ထားတော်မူတတ်ခြင်း ဖြစ်ပေသည်။

### တု၍ မနိုင်, ပြိုင်၍ မရ, သဗ္ဗညုတဉာဏ်

စေတီတော်ကြီးကို ရွှေချ၍ ပြီးသောနေ့က ဖြစ်သည်၊ ဆရာတော်သည် အဝါရောင်အဆင်းဖြင့် တဝင်းဝင်း တလက်လက်ဖြစ်နေသော စေတီတော်ကြီးကို စူးစူးစိုက်စိုက် ရပ်လျက် ဖူးမြော်နေ၏၊ လက်အုပ်ဖူးငုံ ကြာပဒုံကိုလည်း ယှက်ရုံပူးကပ်၍ ပင့်မြှောက် ချီမထားသည်၊ ဖူးမြော်ရင်းက မဆုံးနိုင် မစနိုင် ကျယ်ပြော၍ နက်လည်း နက်ရှိုင်းလှသော (လူနတ်ပြဟ္မာ ဘယ်သတ္တဝါမျှ တု၍မနိုင် ပြိုင်၍မရသော)သဗ္ဗညုတဉာဏ်တော်ကြီးကိုလည်းကောင်း, ထိုသဗ္ဗညုတဉာဏ်တော်ပိုင်ရှင် သက်တော်ထင်ရှားမြတ်စွာဘုရားကိုလည်းကောင်း, အာရုံထဲတွင် ရောက်လာအောင် ယူဆောင်သိမ်းပိုက်လိုက်၏၊ ပြီးမှ အောက်ပါအတိုင်း မြိုက်မြိုက်မြိုက်မြိုက် နှလုံးခိုက်အောင် ဦးတိုက် ကော်ရော် ပူဇော်ရွတ်ဆိုလိုက်သည် ဟူ၏။

**အာကာသော မိနေတုံ သက္ကာ,**
**ရဇ္ဇုယာ အင်္ဂုလေန ဝါ၊**
**န တွေဝ တဝ သဗ္ဗညု-**
**ဉာဏံ သက္ကာ မိနေတဝေ။**

"ကောင်းကင်ကြီးကို ပေကြိုးဖြင့်ဖြစ်စေ (သို့မဟုတ်) လက်သစ် အထွာ အတောင်ဖြင့်ဖြစ်စေ တိုင်းတာ၍ (ရမည်ဆိုလျှင်) ရနိုင်စရာ ရှိပါသေးသည်၊ အရှင်ဘုရား၏ သဗ္ဗညုတဉာဏ်တော်ကြီးကိုကား (ဘယ်နည်းနှင့်မျှ) တိုင်းတာ၍ မရနိုင်ပါဘုရား"ဟု ဆိုလိုသည်၊ ထို့ပြင်လည်း...

**(က) သီရန် မှန်က, မကျန်ရအောင်, လုံးဝ စုံလင်, အကုန်မြင်, သဗ္ဗဉ်ဉာဏ်တော်အစွမ်းတည်း၊**

**(ခ) သိသည့်တရား, များအပြား၌, ဖောာထားစဖွယ်, နည်းသွယ်သွယ်ကို, ခြယ်လှယ်စုံလင်, အကုန်မြင်, သဗ္ဗဉ်ဉာဏ်တော်အစွမ်းတည်း၊**

**(ဂ) ကျွတ်ထိုက်ကြပေ, များဝေနေ၏, ဣန္ဒြေစရိုက်, သူ့အကြိုက်ကို, နိုက်ချွတ်စုံလင်, အကုန်မြင်, သဗ္ဗဉ်ဉာဏ်တော်အစွမ်းတည်း။**

ဟူ၍ သဗ္ဗညုတဉာဏ်တော်၏ အစွမ်း ၃ ပါးဖြင့်လည်း ပူဇော်သေးသည် ဟူ၏။

## ကျန်းမာရေးများ လျော့ပါးလာ

ဤသို့လျှင် တိုက်တွင်း တိုက်ပြင် သာသနာရေး ဘာသာရေးတို့ကို ဆောင်ရွက်ရင်း ဆောင်ရွက်ရင်း ဆရာတော်၏ ကျန်းမာရေးကား ယခင်ကလိုမဟုတ်တော့ချေ။ အစဉ်သဖြင့် တစ်ဖြိုးတည်းကောင်းလာခဲ့သော ကျန်းမာရေးသည် ယခု သက်တော် ၇၇ နှစ်ထဲ၌ အနည်းငယ် ချူချာလာ၏၊ အရွယ်က စကားပြောသလော မသိ, သေးသေးမွှားမွှားရောဂါကလေးတွေ ကပ်ကပ်လာသည်။

မကြာမီကလည်း ခါးနာနေ၍ အတော်ခံလိုက်ရ၏၊ ဟိုဆေး ဒီဆေးဖြင့် လိမ်းသော်လည်း မပျောက်ခဲ့၊ နောက်မှ အနှိပ်ဆရာက အကြောကို ပြုပြင်ပေးလိုက်ကာမှ ပျောက်သွားခဲ့သည်။

*** ဇရာဓမ္မံ 'မာ ဇီရီ'တိ နတ္ထိ ကောစိ ပါဋိဘောဂေါ၊ ဗျာဓိဓမ္မံ 'မာ ဗျာဓိယီ'တိ နတ္ထိ ကောစိ ပါဋိဘောဂေါ။**

အိုခြင်းသဘောကို မအိုစေရဘူးဟူ၍, နာခြင်းသဘောကို မနာစေရဘူးဟူ၍ မည်သူမျှ အာမ မခံနိုင်ချေ၊ အာမခံ၍ ရစကောင်းသောအရာလည်း မဟုတ်ချေ၊ ထို့ကြောင့်ပင် တစ်ချိန်က ကျန်းမာရေးကို ပြုပြင်၍ ရခဲ့သော်လည်း ယခု ထိုသို့ မဟုတ်တော့ချေ၊ ပြုပြင်နေသည့်ကြားမှပင် (ဂရုစိုက်နေသည့် အထဲမှပင်) ရောဂါက တစ်ခုမဟုတ်တစ်ခု ဝင်ဝင်လာတတ်၏။

တစ်ခါတစ်ခါတွင် ဆရာတော်ကိုယ်တိုင်ကပင် ဤသို့ အမိန့်ရှိလာသည်၊ "ခန္ဓာကိုယ်ဟာ လှည်းအိုကြီးလို ဖြစ်လာပြီ၊ လှည်းအိုကြီးဟာ ဆွေးမြေ့အိုမင်းယိုယွင်းလာလို့ သစ်သားတွေ အစားထိုး, ကြိုးတွေနဲ့ ဟိုနေရာက ဖွဲ့တုတ်, ဒီနေရာက ဖွဲ့တုတ် အဲသလို ထိန်းချုပ်ထားလို့သာ ပုံမပျက် ပန်းမပျက်ဘဲ ဖြစ်နေရပေမယ့် တကယ်တော့ အသစ်တုန်းကလို မခိုင်ခံ့တော့ဘူး၊ ပြုပြင်ထိန်းချုပ်ထားတဲ့ ကြားကပဲ ပျက်ပျက်လာတတ်တယ်၊ ဒါဟာ ဓမ္မတာပဲလေ။

တရားတော်ကလဲ "**ဇိဏ္ဏသကဋံ သကဋော အာရုံ, သာယံ လောကဿ ဓမ္မတာ**"လို့ ဆိုတယ် မဟုတ်လားတဲ့။

## သီလလုံနေရင် ဘာမဆို ပြီးစီး

ယခုအခါ မဟာဂန္ဓာရုံကျောင်းတိုက်အတွင်း၌ အကျင့်သိက္ခာဘက်က အထူးတိုးတက်အောင်ကြိုးစားနေသောအချိန် ဖြစ်၏၊ နံနက်ခင်းဩဝါဒပိုင်းတွင်လည်း သီလသိက္ခာ လုံခြုံဖို့, သီလလုံခြုံလျှင် လိုရာဆန္ဒ ပြည့်ဝနိုင်ပုံတို့ကို အားရစဖွယ်ကြီးတွေ ဟောပြနေတော်မူသည်။

**ဏ္ကျှတိ ဘိက္ခဝေ သီလဝတော စေတောပဏိဓိ, ဝိသုဒ္ဓတ္တာ**...စသည်ဖြင့် "သီလရှိသူမှာ ဘာမဆို လိုချင်ရာ ပြည့်စုံပြီးမြောက်နိုင်တယ်"လို့လဲ ဘုရားက ဟောထားတယ်မဟုတ်လား၊ သီလဟာ အောက်ခြေကစပြီး နိဗ္ဗာန်အထိ လိုချင်ရာ ပေးနိုင်တဲ့ အစွမ်းရှိတယ်၊ "အမျိုးမြတ်ချင်ရင် သီလ, အဆင့်အတန်းမြင့်ချင်ရင် သီလ; ရုပ်လှချင်ရင် သီလ, ဘဝကောင်းရချင်ရင်လဲ သီလ, ကိုယ်ပြုထားတဲ့ ဒါနရဲ့အကျိုးတွေကို အပြည့်အဝ ခံစားချင်ရင်လဲ (ခံစားနိုင်ဖို့ ဘဝကောင်းရအောင်) သီလကသာ ပေးနိုင်တာပဲ၊ ဘဝကောင်းကို မရဘူးဆိုရင် ကိုယ်ပြုထားတဲ့ ဒါနရဲ့ အကျိုးတွေကို အပြည့်အဝ ခံစားဖို့ အခွင့်မသာဘူး၊ နောက်ဆုံးနိဗ္ဗာန်ကို ရချင်ရင်လဲ သီလကိုပဲ ထိန်းရမှာပဲ"။ ဤသို့စသည်ဖြင့် သီလသိက္ခာ ထိန်းချင်လာအောင် ဥပမာအမျိုးမျိုးဆောင်၍ ဟောပြ ဩဝါဒပေးတော်မူတတ်၏၊ အမှန်ပင် ဖြစ်ပါသည်၊ သံဃာတော်များက အနည်းငယ် တိုး၍ ကျင့်လိုက်လျှင် ဒါယကာ ဒါယိကာမတို့ကလည်း တိုး၍ တိုး၍ ကြည်ညိုကြ၏၊ ဘုရားသာသနာတော်၏ ဂုဏ်တော်အနန္တကား လက်တွေ့ကြုံမှ ပို၍ ယုံနိုင်ကြ၏၊ လက်တွေ့ကျင့်ပါက ပို၍ပင် အံ့ဩကြရမည်။

ယခု နွေပိုင်း၌ ရာသီဥတုက ပူပြင်းလှ၏၊ စာဝါများ နားထားရသည်၊ ထိုအခိုက်တွင် ကျောက်တိုက်မှ သံဃာများအတွက်နှင့် မကြာ မကြာ လာ၍ ဒုလ္လဘဝတ်ကြသော ပုဂ္ဂိုလ်များအတွက် ရည်ရွယ်ပြီး အကျင့်သိက္ခာဘက်က အထောက်အကူများစွာ ရအောင် "ဒုလ္လဘကထာ"ဟူသော ကျမ်းစာအုပ်တစ်အုပ်ကို ပြုစုရေးသားတော်မူခဲ့သည်။

* အံ ၊ ပါ ၊ စတုက္က — ၄၉၁၊

## ပင့်ကြ ဖိတ်ကြ ကြည်ညိုကြခြင်း

၁၃၃၈ ခု နှစ်သစ်ဦးသို့ ကူးတော့မည့်အချိန်တွင် သရိုင်အနီး ညောင်ပင်တွင်းရွာမှ ဒါယကာများ လာ၍ သံဃာများကို ပင့်နေကြလေပြီ၊ ထို့ကြောင့် ရွာသာကြီးက နှစ်ဆန်းတစ်ရက်နေ့ ပင့်နေကျသံဃာ ၁၀၀ နှင့် ပတ်ဝန်းကျင်ရွာများအတွက် ၃၀ လောက် မှန်းပြီး သံဃာ ၁၃၀ ကြွကြရတော့၏။

ကြွရောက်သွားကြသောအခါ သရိုင်၏ ဝန်းကျင်ရွာများ, ဟန်လင်းမြို့ဟောင်းပတ်ဝန်းကျင်ရွာများနှင့် ဝက်လက်ဝန်းကျင် ရွာများကပါ ဆက်၍ ဆက်၍ ပင့်ကြပြန်သဖြင့် အတော် နယ်နှံ့အောင် သံဃာများက ချီးမြှောက်ကြရတော့သည်။

ပင့်သော ရွာများသို့ သံဃာများကြွ၍ နေ့ဝင်ပြီးဖျ ညနေဆည်းဆာချိန်တွင် ပရိတ်ချီးမြှင့်ကြရ၏၊ စည်းစည်းလုံးလုံး ညီညီညာညာ အဖြတ်အတောက် မှန်မှန်နှင့် သံပြိုင်ဟောရွတ်သော ပရိတ်တရားတို့ကို နာကြား၍ မဝ, ကြည်ညို၍ မဝ ရှိကြဟန် တူသည်။

ဟုတ်ပါလိမ့်မည်၊ ယခုအခါ မြန်မာပြည် အရပ်ရပ်၌ ရွတ်ဖတ်နေကြသော ပရိတ်ရွတ်သံတို့မှာ (တစ်ကျောင်း တစ်ဂါထာ တစ်ရွာ တစ်ပုဒ်ဆန်း၍) မညီမညာ နိုင်လှ၏၊ ဖြတ်ချင်သည့် နေရာတွင် ဖြတ်၍ ရပ်ချင်သည့် နေရာတွင် ရပ်ကြ၏၊ ကလေးဘဝမှ ရခဲ့သော အဖြတ်အတောက်အတိုင်းပင် ရှိကြသည်၊ မပြင်နိုင်ကြသေး၊ သဒ္ဓါကျွမ်း၍ အထက်တန်းသို့ ရောက်လာသောအခါတွင်လည်း မပြင်ဖြစ်ကြသေး။

## သဒ္ဓါမိုးတွေ တာကျိုးဖိတ်လျှံ

ဤအခြေအနေကြောင့် ဆရာတော် အရှင်ဇနကာဘိဝံသက မိမိ၏ ကျောင်းတိုက်မှ သံဃာများကို ပြုပြင်ထားသဖြင့် အဝတ် အစား အသွားအလာ အနေအထိုင် အရွတ် အဖတ်တို့ တညီတညွတ်တည်း ဖြစ်နေကြသည်၊ ဒါယကာ ဒါယိကာမများက လေးစားကြည်ညို လက်ခံကြ၏။

ဤအကြောင်းအရာများကို တစ်ဆင့်စကား တစ်ဆင့်ကြား၍ အင်းဝ တစ်ပါယ်နယ်ကလည်းကောင်း, ရေဦးမြို့နှင့် မရကန်စသော ရွာများကလည်းကောင်း သံဃာ ၃၀ ခန့်စီ ပင့်၍ ပရိတ်နာကြ၏၊ ဆွမ်းဆန်စိမ်းများလည်း လောင်းကြ၏။

ထို့နောက် တံတားဦး မြို့ကလည်း သံဃာ ၁၀၀ ပင့်၍ ပရိတ်နာကြ, ဆွမ်းဆန်စိမ်း လောင်းကြပြန်သည်။

ဤသို့လျှင် ကျင့်ရင် ကျင့်နိုင်သလောက် **"ဓမ္မော ဟဝေ ရက္ခတိ ဓမ္မစာရိံ"** အရ တရားတော်က ပြန်၍ စောင့်ရှောက်သည်မှာ အမှန်ပင် ဖြစ်ပါသည်။

ဤသို့လျှင် သံဃာတော်များ၏ ကြည်ညိုဖွယ် အသွင်ကို မြင်ရသောအခါ ဒါယကာ ဒါယိကာမတို့မှာ ဆီးတား ပိတ်ကာ၍ မရ, အင်းအိုင် ရေကန်ကြီးများ တာပေါင်ကျိုး၍ ရေမိုးတွေ ဖိတ်လျှံ စီးဆင်းကုန်သလို ကြည်ညိုသော နှလုံးသားတို့မှ သဒ္ဓါတရား ရေမိုးတို့ သွန်းဖြိုးစီးဆင်းကုန်ကြရတော့သည်။

## သာသနာနှင့်ဒါယကာ အညမည ကျေးဇူးပြုမှု
### သံဃာတော်များ၏ မိခင်များပမာ

ဆရာတော်ကြီး အရှင်ဇနကာဘိဝံသ မွေးဇာတိ သရိုင်မြေသို့ ကြွပြီးကတည်းက နောက်ပိုင်းတွင် နှစ်စဉ်အမြဲ သရိုင် ရေဦး စသော မြို့နယ် ကျေးရွာ ဒေသတို့က "ဆွမ်းဆန်စိမ်း အလှူခံ ကြွပါ"ဟူ၍ ပင့်လျှောက်ကြ၏၊ ယင်းသို့ ပင့်ချက်အရ သံဃာတော် ၅၀ မျိုး, ၁၀၀ မျိုး, ၁၅၀ မျိုး ကြွ၍ အလှူခံခဲ့ကြရ၏၊ ယခုတိုင်အောင်ပင်တည်း။

ဆန်သာမက ထန်းလျက် ဂျုံ ပဲ ကြက်သွန် ငရုတ် အာလူး မန်ကျည်းသီး ဆီ ဆားတို့ပါ ပါကြသည်။

ဆီအတွက်... အထူးအားဖြင့် မြင်းခြံမြို့က ထောက်ပံ့ကြ၏၊ အခြား မြို့ရွာများမှလည်း တချို့ တစ်ဝက် ပါဝင်သည်၊ ဤသို့ ထောက်ပံ့ လှူဒါန်းနေသောကြောင့်လည်း အမရပူရ မဟာဂန္ဓာရုံမှ သံဃာတော်များသည် ပရိယတ် ပဋိပတ် နှစ်ရပ်သော သာသနာ့လုပ်ငန်းတို့ကို ထမ်းဆောင်နေနိုင်ကြခြင်း ဖြစ်ပါသည်။

ဒါယကာ ဒါယိကာမတို့ကား ကျေးဇူးကြီးမားကြပေ၏၊ သံဃာတော်များ၏ မိခင်များသဖွယ် ဖြစ်ကြသည်၊ သူတို့ ထောက်ပံ့ ကျေးဇူးပြုထားကြ၍ သံဃာတော်များ နေနိုင်ကြခြင်း ဖြစ်ပေ၏။

တစ်နိုင်ငံလုံး အတိုင်းအတာဖြင့်လည်း တစ်ပြည်လုံးရှိ သံဃာတော်များအား ဒါယကာ ဒါယိကာမ အားလုံးက ထောက်ပံ့ထားကြ၍ ရပ်တည်နေနိုင်ကြခြင်း ဖြစ်ပေသည်၊ ထို့ကြောင့် သံဃာတော်များ တစ်ရပ်လုံးကလည်း နိုင်ငံအပေါ် ပြန်၍ ကျေးဇူးပြုနိုင်ကြမှ အညမည ဖြစ်ပေမည်။

### သာသနာတည်နိုင်သော ဒေသများ

အနော်ရထာဘုရင်က ပုဂံတိုင်းပြည်ကြီး တည်တံ့ရေး, သာသနာတော်ကြီး အရှည်ခံရေးအတွက် စပါးများစွာ ထွက်သော ကျောက်ဆည်ခရိုင်ကို "စပါးကျီကြီး" ဟူ၍ သမုတ်သလို မဟာဂန္ဓာရုံ ကျောင်းတိုက်ကြီးကလည်း ယင်း မြို့ ရွာ နယ်ပယ် ဒေသများကို "မဟာဂန္ဓာရုံ၏ စပါးကျီကြီးများ" ဟူ၍ပင် ကျေးဇူးတမြေ့မြေ့တင်လျက် ရှိကြပါ၏။

"ရေ မရနိုင်သော သဲကန္တာရ၌ မြေစာမြက် မပေါက်နိုင်, တစ်ကွက်တလေ ရေရသော (အိုအေစစ်)တို့လို နေရာမျိုး၌သာ မြေစာမြက်သည် ပေါက်နိုင်သလို ထို့အတူပင် သာသနာတော်သည်လည်း ပစ္စည်းလေးပါး အထောက်အပံ့ရသော နေရာမျိုး၌သာ ရပ်တည်တတ်၏။

အထူးအားဖြင့် မုတ်သုန်လေကြောင်း ကျ၍ စိမ်းစိုရွှန်းမြ စပါးခင်းများ ပေါများကြသော သီရိလင်္ကာ ထိုင်း ကမ္ဘောဒီယား လာော မြန်မာပြည်တို့လို နေရာမျိုး၌သာ ကြာရှည် ရပ်တည်သည်"ဟု သမိုင်းသုတေသီတို့က ဆိုကြသည်။

"သို့ဖြစ်လျှင် မိမိတို့မှာ မုတ်သုန်လေကြောင်း ရပ်ဝန်းဒေသနိုင်ငံတို့၌ လူဖြစ်ကြရသဖြင့် သာသနာတော်နှင့် တွေ့ရသောကြောင့် အခွင့်သာပေစွတကား"ဟု ဝင့်ကြွား ဂုဏ်ယူစရာပင် ဖြစ်တော့သည်။

ဤသို့ အခွင့်သာသည့်အားလျော်စွာ အနာဂတ်ကာလများတွင်လည်း သာသနာနှင့် ဒါယကာ အညမည (အပြန် အလှန်) ကျေးဇူးပြုနိုင်ကြပါစေသော်"ဟူသော အာသီသဖြင့် ယခုအခါ ထိုမြို့တို့ကို မှတ်တမ်းတင်ပါအံ့။

အကယ်၍များ လစ်လပ် ကျန်ရစ်ပါလျှင်လည်း သည်းခံ ခွင့်လွှတ်ကြပါရန် တောင်းပန်အပ်ပါသည်။

# မဟာဂန္ဓာရုံကျောင်းတိုက်၏ ဆွမ်းအလှူရှင် မြို့ရွာများ

### ရေဦးမြို့

၁။ ရေဦးမြို့၊ ၂။ တင်းတိမ်ရုံရွာ၊ ၃။ ပေါက်သာရွာ၊ ၄။ အောင်ချမ်းသာရွာ၊ ၅။ ရေဦးကုန်းရွာ၊ ၆။ ပန်းကုန်းရွာ၊ ၇။ ပုဏ္ဏကားရွာ၊ ၈။ ဖိန်ကားရွာ။

### ခင်ဦးမြို့

၁။ သာဝတ္ထိရွာ၊ ၂။ မုံလှရွာ၊ ၃။ အင်းပတ်ရွာ၊ ၄။ ရွာသစ်ရွာ၊ ၅။ တာတိုင်ရွာ၊ ၆။ မြေလတ်ရွာ၊ ၇။ အုန်းပင်ကွက်ရွာ၊ ၈။ လက်ပန်ကွက်ရွာ၊ ၉။ သက်ပေးရွာ၊ ၁၀။ မရမ်းအင်းရွာ။

### တံတားဦးမြို့နယ်

၁။ တံတားဦးမြို့၊ ၂။ စကားအင်းတောင်ရွာ၊ ၃။ စကားအင်းမြောက်ရွာ။

### ရွှေဘိုမြို့နယ် ချိုပါရွာ

### ဒီပဲယင်းမြို့နယ်

၁။ မရကန်ရွာ၊ ၂။ အုန်းခါးရွာ၊ ၃၊ ကုန်းတဲရွာ၊ ၄။ တိုင်နတ်ရွာ၊ ၅။ အင်ပင်ရွာ၊ ၆။ မြင်းတန့်ကျေးရွာ၊ ၇။ ညောင်လှရွာ၊ ၈။ ဝဲကြီးရွာ၊ ၉။ သရက်ပင်စုရွာ၊ ၁၀။ ဇီမ့်ဒွန်းရွာ၊ ၁၁။ ပိဋကတ်ကျရွာ၊ ၁၂။ ဆည်ကြီးရွာ၊ ၁၃။ ယဉ်ကျေးရွာ၊ ၁၄။ တည်တောရွာ၊ ၁၅။ ဆင်ဝပ်ကုန်းရွာ၊ ၁၆။ သပြေသာရွာ။

### တန့်ဆည်မြို့နယ်

၁။ တန့်ဆည်မြို့၊ ၂။ ရွှေကတော်လမ်းဆုံ၊ ၃။ ခပေါင်းကြိုင်ရွာ၊ ၄။ ကျွန်းတောကုန်း၊ ၅။ အင်ကုက္ကားရွာ။

### စဉ့်ကိုင်မြို့နယ် ပလိပ်မြို့။

### မိတ္ထီလာမြို့နယ် မိတ္ထီလာမြို့။

### ဝက်လက်မြို့နယ်

၁။ ဝက်လက်မြို့၊ ၂။ သဲရိုင်ရွာ၊ ၃။ ခင်မင်ရွာ၊ ၄။ စမွန်းရွာ၊ ၅။ ညောင်ပင်တွင်းရွာ၊ ၆။ ဟံလင်းကြီးမြို့၊ ၇။ ဆားတောင်ကြီးရွာ၊ ၈။ အောင်ချမ်းသာရွာ၊ ၉။ ဘင်တဲကုန်းရွာ၊ ၁၀။ ကော်တုန်ရွာ၊ ၁၁။ တံတားဦးရွာ၊ ၁၂။ သခွတ္တောရွာ၊ ၁၃။ မကျည်းတုံရွာ၊ ၁၄။ လှတောရွာ၊ ၁၅။ သမန်သာရွာ၊ ၁၆။ ဗိုလ်တဲကုန်းရွာ၊ ၁၇။ ရွာသာကြီးရွာ၊ ၁၈။ ရွှေပန်းကုန်းရွာ၊ ၁၉။ သမ္မာရိုးရွာ၊ ၂၀။ ဆားတောင်ရွာ။

### အမရပူရမြို့နယ်

၁။ လိပ်ဆန်ခွဲရွာ၊ ၂။ ဘနောရွာ၊ ၃။ သပြေအုပ်ရွာ။

### ဆီလှူသောမြို့ရွာများ

မြင်းခြံ၊ နွားထိုး၊ တောင်သာ၊ ညောင်ဦး။

## ဆန်အလှူခံ ခရီးလမ်းမ

### လမ်းကြောင်းကြီးနှစ်သွယ်

နှစ်စဉ်နှစ်တိုင်း ဆန်အလှူခံပင့်၍ ကြွကြရသော ခရီးလမ်းကြောင်းသည် လမ်းမကြီးအားဖြင့် နှစ်သွယ်ရှိ၏၊ တစ်သွယ်မှာ သရိုင်ရွာကို ဦးတည်သွား၍ သရိုင်ရွာကို အခြေခံကာ ဝန်းကျင်ရွာတို့၌ အလှူခံရသော ခရီးကို "သရိုင်ခရီး"ဟု ခေါ်ကြ၏။

ကျန်တစ်ကြောင်းကား ရေဦးမြို့ကို ဦးတည်သွား၍ ရေဦးကို အခြေခံကာ ဝန်းကျင်ရွာတို့၌ အလှူခံရသော ခရီးကို "ရေဦးခရီး"ဟု ခေါ်ကြသည်။

အတိုကောက်အားဖြင့် နှစ်မျိုးစလုံးကို "ဆန်ခရီး" ဟူ၍ ခေါ်လိုက်ကြတော့သည်။

ထို့ပြင်လည်း အမရပူရမြို့နယ်က လိပ်ဆန်ခွဲ, သပြေအုပ်, ဘနော စသော ရွာများနှင့် ပလိပ်မြို့, မတ္ထီလာမြို့, တပ်ကုန်းမြို့ စသော ခရီးများလည်း ရှိသေး၏၊ ရွာစဉ် ရွာဆက်များသော သရိုင်ခရီး ရေဦးခရီးတို့၌ တစ်ကြိမ်ထွက်လျှင် ၁၅ ရက် အရက် ၂၀ ခန့်မျှ ကြာတတ်သည်။

## ရောက်လေရာ ဂန္ဓာရုံလိုပင်

ကျောင်းတိုက်မှ မထွက်မီကပင် ကြိုတင်၍ ဘယ်ရွာမှာ ဘယ်နေ့ရောက်မည်၊ ဘယ်ကျောင်း တည်းခိုမည်၊ နံနက် အရုဏ်ဆွမ်းကို မည်သူက, နေ့ ဆွမ်းကို မည်သူက, ညနေ အဖျော်ယမကာကို မည်သူက ဟူ၍ (ဒါယကာ ဒါယိကာမများလျှောက် ထားချက်အရ) စီစဉ်ထားပြီး ဖြစ်ကြ၏၊ ဒါယကာ ဒါယိကာမတို့ကား အံ့သြဖွယ်, ကျေးဇူးတင်ဖွယ် ဖြစ် ကြသည်၊ (အစိမ်းလည်း လှူ, အကျက်လည်း လှူ) ဆိုသလို ဖြစ်တော့သည်။

ကြွသောအခါတွင် ကျောင်းဘုန်းကြီး, စာချ ဘုန်းကြီးများ ကွပ်ကဲလျက် ကြွကြရ၏၊ ရောက်သည့် နေရာတွင် မဟာဂန္ဓာရုံမှာလိုပင် ပုံသွင်မပျက် နေကြထိုင်ကြ သွားလာကြရ၏၊ လပြည့် လကွယ် နေ့တို့နှင့် ဆုံလျှင် ရောက်ရာမြို့ရွာတွင် သံဃာ့ ဥပုသ်ပြုကြ၏၊ တစ်ပါးက ပါတိမောက် ငါးဥဒ္ဒေသ လုံး ပြရသည်။

## သူတို့အမြင် သူတို့မှတ်ချက်

အဖိတ်နေ့ ဥပုသ်နေ့သို့ ရောက်တိုင်းလည်း ပုံသွင်မပျက် အားလုံးခေါင်းရိတ်ကြရ၏၊ ထို့ကြောင့် ခေါင်းရိတ်ဓားများ (မကျန်းမာလျှင် အသင့်ဖြစ်ဖို့ ဆေးသေတ္တာတို့ပါ) တစ်ခါတည်း ပါသွားကြရသည်၊ ခေါင်းကလေးများ အားလုံး ပြောင်နေကြ၏၊ ထို့ ကြောင့် ဒါယကာတစ်ယောက်က မှတ်ချက်ချသည်။

"သူများနဲ့ မတူတာတော့ အမှန်ပဲကွ၊ ကြည့်ပါ လား, ခေါင်းရိတ်တာကအစ တစ်နေ့တည်း တစ်ရက် တည်း တစ်ပြိုင်တည်း ပြောင်လို့, ဦးရေကလေးတွေ စိမ်းလို့" ဟူ၍ ဖြစ်သည်။

သင်းပိုင်များနှင့် ကေသီများကိုလည်း ထုံးစံ အတိုင်း အစအဝန်းညီညီ ဝတ်၍ ရုံ၍ ရွာတွင်းသို့ တန်းစီဝင်ကြသောအခါ ရွာတစ်ရွာတွင် အဘွားကြီး တစ်ယောက်၏ နှုတ်က ပွင့်အန်ပြီး အာမေဋိတ်သံ ထွက်လာသည်။ "ဟောတော်... ကြည့်ကြပါဦး, အကုန်လုံးပဲ တကတဲ ညီပဲ ညီနိုင်လွန်းကြတယ် တော်, ဘယ်လိုများ လုပ်ထားကြသလဲ မသိဘူး, အောက်က သင်္ကန်းအနားစတွေကလဲ ကတ်ကြေးနဲ့ တိကိုက် ဖြတ်ထားသလိုပဲ, တစ်ပုံစံတည်း တစ်ရွယ် တည်း" ဟူ၍ ဖြစ်၏၊ ရွာတစ်ရွာတွင်ကား ဒါယကာ ကြီးတစ်ဦးက အတွေ့အကြုံ ဗဟုသုတများသူ ဖြစ် ဟန်တူ၏၊ သူက မှတ်ချက်ချသည်မှာ...

"အင်း-အစစ အရာရာ စည်းစနစ်နဲ့ ပြင်ထား တာ ကောင်းပါတယ်၊ ကြည်ညိုဖွယ်လဲ ဖြစ်ပါတယ်၊ ညီလဲ ညီညာကြပေတယ်၊ ဒါပေမယ့် သိပ်ပြီး ညီ လွန်းတော့လဲ အမြင်ကပ်စရာ ဖြစ်နေတတ်တယ်"

ဟူ၍ စဉ်းစားဖွယ် ထင်မြင်ချက် တစ်မျိုးကို ပေးသည်။

## ဘယ်သောအခါမှ ကလောင်မတုံးခဲ့

နှစ်သစ်ကူးပြီးနောက် နယုန်လသို့ ရောက်သော အခါ မိုးဖြိုင်ဖြိုင် ကျလာသည်၊ အညာဒေသ၏ ရာသီဥတုမှာ ထိုအခါမှ နေသာထိုင်သာ ဖြစ်လာ တော့၏။

မိုးကလေးများ ကျလာသည်ဆိုလျှင်ပင် သစ်ပင် ပန်းမန်တို့သည်လည်း လန်းဆန်းလာကြကုန်၏၊ ကြွေကျခဲ့သော ဇော်ရွက်ဝါတို့၏ နေရာတွင် ဖူးပရစ် အကိုင်းအညွှာက်ကလေးများ စို့၍ လာကာ သာယာသော သဘာဝကြီးကို ဖန်တီးရန် အားပြန်၍ ယူလာကြတော့သည်။

သံဃာတော်များ၏ စိတ်ဓာတ်တို့သည်လည်း သိသိသာသာကြီး တက်ကြွ လန်းဆန်းလာကြတော့ ၏။

ထို့ကြောင့် ၁၃၃၈ ခု နယုန်လပြည့်ကျော် ၁ ရက်နေ့တွင် ယမိုက်ပါဠိတော် အဌကထာနှင့် မူလ ဋီကာတို့ကို စတင်ပို့ချရေးသားတော်မူသည်၊ ထို့ပြင် မပြီးသေးသော သုတ်မဟာဝဂ္ဂပါဠိတော်နှင့် အဌ ကထာကိုပါ ဆက်လက် ချပို့ ရေးသားတော်မူ၏။

ထိုနှစ်ဝါတွင်းက သံဃာ ၄၇၀ ပါးနှင့် ဖိုးသူတော် ကလေးများ ၂၀ ကျော်ရှိသည်၊ စာမေးပွဲကို ဦး မတည်သော စနစ်သို့ ပြောင်းလိုက်သဖြင့် သံဃာ အရေအတွက် အနည်းငယ် လျော့သွားသည်။

ဆရာတော်က အမိန့်ရှိ၏။ "အရေအတွက် လျော့ချင် လျော့ပစေ, အရည်အချင်း မလျော့ဖို့ အရေးကြီးတယ်၊ အရေအတွက်ထက် အရည်အချင်း ကို တန်ဖိုးထားရမယ်" ဟူ၍ ဖြစ်၏။

## ပဋ္ဌာန်းဘာသာဋီကာ ချပို့ရေးသား

စာဝါများကို မှန်မှန်ချပို့၍ သီတင်းကျွတ်ခါနီး သောအခါ ယမိုက်ပါဠိတော် အဋ္ဌကထာနှင့် မူလဋီကာတို့ကို ချပို့ ရေးသား ပြီးစီးသွားခဲ့သည်။

ထို့ကြောင့် ရှေ့ဆက်လက်၍ ၁၃၃၈ ခု သီတင်းကျွတ်ခါနီး၌ ပိဋကတ်တွင် အခက်ဆုံး အထက်ဆုံး အမြင့်ဆုံးဖြစ်သော ပဋ္ဌာန်းပါဠိတော်ကြီးကို အဖွင့် အဋ္ဌကထာ မူလဋီကာတို့ဖြင့် မြိုင်မြိုင်ဆိုင်ဆိုင် စတင် ချပို့ ရေးသားတော်မူခဲ့ပြန်လေသည်။

ဆရာတော် အရှင်ဇနကာဘိဝံသကား ထူးခြားသော ပုဂ္ဂိုလ်ဖြစ်၍၊ အံ့ဖွယ်ကောင်းလှသည်။

အကြောင်းကို ဆိုရသော် ... ကလေးအရွယ် သာမဏေငယ်များ သင်ဖွယ်ဖြစ်သော အောက်ထစ်ဆုံး အနိမ့်ဆုံး (မူလတန်းပါဠိသိက္ခာ)ကျမ်းစာတို့လိုက စပြီး ယခု အထက်အမြင့်ဆုံး အကျယ်ဆုံးဖြစ်သော ပဋ္ဌာန်းပါဠိတော် အဋ္ဌကထာ ဋီကာကြီးများအထိ နှံ့စပ်အောင် ပိဋကတ်ပင်လယ်ကြီးများကို ကူးခတ်၍ ပို့ချရေးသားနိုင်စွမ်း ရှိပါပေ၏။

ထို့ကြောင့် "ထူးခြားသောပုဂ္ဂိုလ်"ဟု ဆိုထိုက်ပါသည်။

ဆရာတော်၏ ကလောင်သည် ထက်လှ၏၊ အသက်ငယ်စဉ်မှ စ၍ ယခု သက်တော် ၈၀ နီးပါး အထိ ချွန်လျက် ထက်လျက်ပင် ရှိသေးသည်၊ မည်သည့် အခါမျှ မကျ၊ မည်သည့် အခါမျှ မတုံးခဲ့၊ ရှေ့အနာဂတ်တွင်လည်း တုံးလိမ့်မည် မဟုတ်ချေ၊ တစ်ဘဝလုံး ချွန်ထက်သောကလောင်ကို အမြဲပင် စွဲကိုင်လျက်ရှိပေသည်။

# တာဝန်ရှိ၍ တာဝန်သိသိဖြင့် ဆောင်ရွက်ခြင်းများ

## ကြားသိပါလျက် ကြောင့်ကြမဲ့လျှင်

၁၃၃၈ ခု သီတင်းကျွတ်လထဲက ဖြစ်၏၊ ဆရာတော်မှာ ဆောင်ရွက်မြဲ တာဝန်များအပြင် မလွှဲဖယ်သင့်သော တာဝန်များ ထပ်မံတိုးလာရပြန်သည်၊ အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်၏ တောင်ဘက် အနီးမှာ "တောင်မင်းကြီးဘုရား"ဟူ၍ ထင်ရှားကြီးမားလှသည့် တင်ပျဉ်ခွေ ရုပ်တုတော်ကြီးတစ်ဆူ ရှိ၏၊ တင်ပျဉ်ခွေဉာဏ်တော်ပင်လျှင် ၄၆ ပေ ၁ လက်မ ရှိသည်။

တောင်သမန်အင်းစောင်းတွင် သီတင်းသုံးတော်မူလျက် ရှိ၏၊ ဘုရားဝိုင်းကြီးများ အုတ်တံတိုင်းကြီးများဖြင့် အခိုင်အခံ့ ပတ်လျက်ရှိသည်၊ သို့သော် နှစ်ကာလ ကြာညောင်း၍ ဟောင်းနွမ်းလှလေပြီ။

မိုးတွင်းအခါတွင် တောင်သမန်အင်းရေတိုး၍ လှိုင်းပုတ်သဖြင့် အုတ်တံတိုင်း အခြေက မြေတွေ ရေထဲ ပါကုန်တော့သည်၊ တံတိုင်းကြီးများ အနည်းငယ်ပင် ပျက်စီးစ ပြုနေပြီ၊ ဤသတင်းကို ဆရာတော် ကြားနေရ၏။

"ကြားပါလျက် သိပါလျက် အနားမှာလဲ ရှိပါလျက် ကြောင့်ကြမဲ့နေလျှင် ငါ့မှာ တာဝန်မကျေ ဖြစ်တော့မည်"ဟု ဆရာတော်က ယူဆ၏။

သို့အတွက် ပြုပြင်ဖို့ရန် မိမိ အင်အားဖြင့် တတ်နိုင် မတတ်နိုင် ချိန်ဆနေစဉ် အမရပူရ (ပလစ) အမှတ် ၂ အင်ဂျင်နီယာစစ်တပ်က လာ၍ (ဘူလ်ဒိုဇာ)စက်ကြီးဖြင့် မြေတွေကို ရေထဲက ပြန်ယူ ဖို့ပေးသည်။

ကျေးဇူးတင်ဖွယ် ကောင်းလှသည်။



ကျောက်တော်ကြီးဘုရား



တောင်သမန်တံတား

## ကျောက်ထုပ်ကြီးတည်ဆောက်ပေး

သို့သော် ဤသို့ ပြန်လည်ဖို့ပေးရုံဖြင့် ခိုင်မြဲသွားမည် မဟုတ်ချေ၊ နောင်နှစ်တွေမှာ ရေလှိုင်းပုတ်လျှင် ဤသို့ပင် ရေထဲ ပြန်ပါပါကုန်ဦးမည်သာ ဖြစ်သည်၊ ထို့ကြောင့် အုတ်တံတိုင်းနှင့် ခပ်ဝေးဝေးခွာ မြေစာတွေ ဖြည့်ပြီး ကျောက်ခဲ အုတ် အင်္ဂတေ ဘိလပ်မြေတို့ဖြင့် ကျောက်ထုပ်ပြုလုပ်၍ အခိုင်အခံ့ ကာပေးထားနိုင်မှ စိတ်ချရမည်ဟု ဆို၏။

ထို့ကြောင့် ကျောက်ထုပ်ပြုလုပ် ကာကွယ်ရန် စီမံရတော့သည်၊ အများကလည်း ကုသိုလ်ပါဝင်လာကြ၏၊ ထိုပါဝင်လာသော ငွေတို့ကို ကပ္ပိယဒါယကာကြီး ဦးကျော်ဝင်းက လက်ခံထားရသည်၊ ထိုစဉ်က စာချဘုန်းကြီး ဦးစန္ဒောဘာသက ကြည့်ရှုကြပ်မတ်ပေးရသည်။

နောက်ထပ် လိုအပ်သော ငွေတို့ကိုကား မဟာဂန္ဓာရုံကျောင်းဒါယကာ ဦးထွန်းလှိုင်+ကျောင်းအမ ဒေါ်သိန်းတို့က တာဝန်ယူကြ၏၊ ဤသို့ဖြင့် တံတိုင်းကြီး စိတ်ချရအောင် ကာပေးသောအခါ (ခြောက်သောင်းကျော်မျှတန်သော) ရှည်လျားကြီးမားသည့် ကျောက်ထုပ်ကြီးတစ်ခု ပြီးစီးခဲ့သည်။

အကယ်၍ ကျောက်ထုပ်ကြီးသာ လုပ်မထားပါလျှင် တဖြည်းဖြည်း ရေစား၍ အုတ်တံတိုင်းကြီးပြိုကျမည်, အုတ်တံတိုင်းကြီး မရှိလျှင် ဆင်းတုတော်သည်လည်း မကြာမီ ရေနန်းစံတော်မူရမည် ဖြစ်၏၊ ဤဘေးရန်များကို ကာကွယ်ရန်အတွက် ဆရာတော်က အစီအစဉ် ချ၍ ကြောင့်ကြတော်မူခဲ့ရသည်။

## တောင်သမန်တံတားရှည်ကြီး

ထို့ပြင် ဤကဲ့သို့ ပတ်ဝန်းကျင်ကို ကြောင့်ကြမဲ့ မနေသာ၍ ကာကွယ် စောင့်ရှောက်ရမှုနှင့် ပတ်သက်ပြီး အခြားတစ်မျိုး ရှိသေး၏၊ ယင်းကား အမရပူရဘက်မှ တောင်သမန်ရွာဘက်သို့ ဖြတ်ကူးသော နာမည်ကြီး "တောင်သမန်တံတားကြီး" (သို့မဟုတ်) "ဦးပိန်တံတားကြီး"ပင် ဖြစ်သည်။

ထိုတံတားကြီးမှာ ၁၂၁၁ ခုနှစ်က စတင်တည်ဆောက်ခဲ့သဖြင့် ယခုအခါ နှစ်ပေါင်း ၁၃၀ ပင် ကျော်ခဲ့ပြီ၊ တိုင်ပေါင်း တစ်ထောင်ကျော် ပါဝင်၏၊ အရှည်အလျားမှာ ၃၉၆၇ ပေ ရှိသည်၊ တစ်မိုင်၏ လေးပုံသုံးပုံ (¾ မိုင်) ရှည်လျားသည်၊ အခန်းပေါင်း ၄၈၂ ခန်း ပါဝင်၏၊ တံတား၏ အစ အလယ် အဆုံးတွင် နားခိုဖို့ရန် ဇရပ်သုံးဆောင်လည်း ရှိသည်၊ လူသူအပေါင်းကို "နားခိုလှည့်ပါ"ဟု ဖိတ်ခေါ်နေသယောင် ထင်ရ၏။

"မြေဝင်တစ်သူ, ထူးမှုနှစ်ချက်, နှစ်ဖက်ဝရံတာ, ခင်းသုံးလွှာ"ဟူ၍ တံတားကြီးနှင့် ပတ်သက်ပြီး မှတ်ချက် တွေ့ရသည်။

တိုင်ကြီးများကို မြေထဲသို့ လူတစ်ရပ်ခန့် စိုက်မြှုပ်ထားသည်ဟု ဆိုလို၏၊ ထို့ပြင် တူးဖော်တွေ့ရှိချက်အရ မြေထဲ၌ နစ်နေရသည့်အပိုင်းတွင် တိုင်ကြီးများကို ကြက်ခြေခတ်ဖောက်၍ (ပဲဟင်းချိုမွှေသော ဒလက်ကဲ့သို့) တစ်လံခန့်မျှ သစ်သားအနှစ်ကြီးများ ကန့်လန့် ဖောက်လျှို တပ်ဆင်ထားသည်ကို တွေ့ရသည်၊ "ထူးနှစ်ချက် ခတ်ထား၏"ဆိုသည်မှာ ဤအရာပင် ဖြစ်၏၊ တိုင်ကြီးများ မယိုင်လဲဘဲ ခိုင်မြဲဖို့ ပြုလုပ်ထားခြင်း ဖြစ်သည်။

တံတားကြီးပေါ်တွင် လျှောက်သွားသောအခါ အပြင်ဘက်သို့ အားလွန်၍ ကျမသွားစေရန် ဝဲဘက်ယာဘက်၌ လက်ရမ်း ဝရံတာ သစ်သားတန်းများ ရှိ၏၊ အခင်းမှာမူ သုံးလွှာ သုံးထပ်ဖြစ်သည်၊ သို့သော် ယခုအခါမှာ အချို့နေရာ၌သာ ရှိတော့၏။

## ထီးရိပ်များသဖွယ် မယ်ဇယ်ပင်တန်း

တံတားကြီးကို ဆောက်ရာ၌ လေဒဏ် မိုးဒဏ် အတိုးခံနိုင်ဖို့ရန် (လေးကိုင်းကွေး)ကဲ့သို့ လေလှိုင်း ရေလှိုင်းများ လာမည့်ဘက်ကို မျက်နှာမူပြီး တည်ဆောက်ထားကြသည်၊ ဆောက်လုပ်ရေးပညာ၏ အမြော်အမြင်ပင် ဖြစ်၏၊ ထို့ကြောင့်ဟု ဆိုရပေမည်၊ နှစ်ပေါင်းတစ်ရာ ကျော်သည့်တိုင် မယိုင်မလဲ ခိုင်မြဲတည့်မတ် ထီးထီးကြီးတွေ ရပ်နေနိုင်ခဲ့သည်၊ အံ့ဩဖွယ်ပင်။ အနံ့ အလျား ကျယ်ပြောသည့် ဤအင်းရေပြင်ကြီးကို ဖြတ်သန်းနိုင်ရေးအတွက် တံတားဆောက်ဖို့ ကြံစည်သူတို့မှာလည်း အမြော်အမြင်ကြီးမားကြ၏၊ ခေါင်းဆောင်များ၏ သဘာဝပင် ဖြစ်သည်၊ အများပြည်သူ ကြည်ဖြူချမ်းသာ သွားလာနိုင်ရေးအတွက် ဆောင်ရွက်ကြခြင်း ဖြစ်၏။

အင်းဝမှ အမရပူရသို့ နန်းရွှေ့စိုက်သောအခါ အင်းဝတွင် ကျန်ရစ်သော နန်းတော်ဟောင်းကို ဖျက်ယူ တည်ဆောက်သည်ဟု အဆိုရှိ၏၊ မြို့ဝန်ဘိုင်ဆတ်၏တပည့် မြို့စာရေးကြီး ဦးပိန်က ကြီးကြပ်တည်ဆောက်ရသည်၊ ထို့ကြောင့် ဤတံတားကို "ဦးပိန်တံတား"ဟုလည်း ခေါ်ကြသေးသည်။

(ဤတံတားကြီး, တောင်သမန်ကျောက်တော်ကြီးနှင့်, တောင်မင်းကြီးဘုရားသို့ အမရပူရမြို့မှ သွားသောအခါ နေပူ မိုးဒဏ် ခိုနိုင်ရန် မယ်ဇယ်ပင်တန်းကြီး အပင် ၁၀၀ ကျော်တို့ကိုလည်း စိုက်၍ ထားခဲ့သေးသည်။)

## ကြောင့်ကြမဲ့ နေမရ ကူရညီရမှ

၁၃၃၅ ခုနှစ်က ဖြစ်သည်၊ ထိုနှစ်က မိုးများလွန်း၍ လှိုင်းဒဏ် လေဒဏ်ဖြင့် ဦးပိန်တံတားကြီးမှာလည်း အတော်ခံလိုက်ရ၏၊ တောင်သမန်အင်းကြီးထဲတွင် ရေတွေ ပြည့်လျှံဖြိုးမောက်လာဖြိုးလာပြီး (မမြုပ်စဖူး) တံတားကြီး ရေထဲ မြုပ်သွားရသည်၊ အခန်းပေါင်း ၈၀ ကျော် ပျက်စီးပြီး ရေထဲပါသွား၏၊ သွားမရအောင် ဖြစ်ခဲ့ရသည်။

ထိုတွင် ဆရာတော်မှာ ဝါသနာအရ ကြောင့်ကြမဲ့ နေ၍ မရတော့ပါ။ ဒုက္ခရောက်သူကို တွေ့လျှင် ကူရညီရမှ, ဖေးရ မ,ရမှ စိတ်ထဲကျေနပ်သော ဆရာတော် ဖြစ်ပါသည်၊ ထို့ကြောင့် မိမိတို့ တတ်နိုင်သမျှအားအင်ဖြင့် တံတားကြီးကို ပြင်မည်ဟု စီစဉ်ရာ နီးစပ်ရာ ဒါယကာ ဒါယိကာမတို့လည်း ပါဝင်လာကြ၏၊ ပါဝင်သမျှကို ကပ္ပိယဒါယကာကြီး ဦးကျော်ဝင်းက လက်ခံရသည်၊ အစိုးရပိုင်းဆိုင်ရာ ပြည်သူ့ကောင်စီတို့ကလည်း အကူအညီပေးပါ၏။

ထိုအခါ စာချဘုန်းကြီး ဦးစန္ဒောဘာသနှင့် ဘုန်းကြီး ဦးမဟိန္ဒတို့က လက်သမားတို့ဖြင့် ကြည့်ရှုကြပ်မတ် စီမံကြရသည်၊ "ဆရာတော်ပါ မနေသာ၍ ကြောင့်ကြစိုက်သည်"ဟု ကြားသောအခါ ဒါယကာ ဒါယိကာမတို့လည်း အားတက်သရော ယုံကြည်စိတ်ချစွာ ပါဝင်ကူညီလာကြ၏။

ဤနည်းဖြင့် တံတားကြီးမှာ ချမ်းသာ လွယ်ကူစွာ သွားနိုင်အောင် ပြန်လည် ဖြစ်ပေါ်လာရသည်။

## တောင်သမန်ကျောက်တော်ကြီးဘုရား

### ဘကြီးတော်နှင့်တူပုဂံမင်း

ဆရာတော်မှာ ဆောင်ရွက်ချိန်တန်၍ ဆောင်ရွက်ရသည်ဟုပင် ဆိုရမည် ဖြစ်၏၊ ယခု ၁၃၃၈ ခုဆောင်းကာလတွင် တာဝန်တစ်ခု တိုးလာပြန်သည်၊ ယင်းကား အခြားမဟုတ်၊ မဟာဂန္ဓာရုံကျောင်းတိုက်၏ အရှေ့စူးစူး ခပ်လှမ်းလှမ်းတွင် ထုံးအဖွေးသားဖြင့် ဖူးတွေ့နေရသော "တောင်သမန်ကျောက်တော်ကြီးဘုရား"ပင် ဖြစ်၏။

အဝေးက လှမ်း၍ ဖူးလျှင် ထုံးဖြူဖြူ လိုဏ်ဂူစေတီတော်ကြီးကိုသာ မြင်ရမည်၊ အတွင်းသို့ ဝင်၍ ဖူးလျှင်ကား ကြည်ညိုဖွယ်ကောင်းသော ကျောက်သား တင်ပျဉ်ခွေ ဆင်းတုရုပ်ပွားတော်ကြီးကိုပါ တဝကြီး ဖူးတွေ့ရမည် ဖြစ်၏၊ "ဤရုပ်ပွားတော်ကြီးထံ ဆုပန်လျှင် ဧကန်ပြည့်ဝသည်"ဟု လက်တွေ့ရှိသူတို့က ရဲရဲတင်းတင်း ပြောကြ၏။

ဤရုပ်ပွားတော်ကြီး၏ သမိုင်းကြောင်းကလည်း စိတ်ဝင်စားဖွယ် ကောင်းလှပါသည်။

ရုပ်ပွားတော်ကြီးကို သက္ကရာဇ် ၁၁၉၂ ခုနှစ်တွင် အင်းဝရွှေပြည်၌ ထုလုပ် ကိုးကွယ်ခဲ့၏၊ ဉာဏ်တော် အမြင့်မှာ ၁၁ တောင် ၂ မိုက် ၄ သစ် ရှိသည်၊ ထုလုပ်ကိုးကွယ်သူမှာ အမရပူရတွင် နန်းစံခဲ့ပြီးမှ အင်းဝသို့ ပြောင်းရွှေ့နန်းစံသော (စစ်ကိုင်းမင်းခေါ်) ဘကြီးတော်မင်းတရား ဖြစ်၏။

လိုဏ်ဂူစေတီတော်ကြီးကိုကား သက္ကရာဇ်၁၂၁၃ ခုနှစ်တွင် အမရပူရ တောင်သမန်အရပ်၌ ထိုရုပ်ပွားတော်ကြီး ကိန်းဝပ်ရန် တည်ဆောက်ခဲ့သည်၊ အောက်ခြေအလျား ၈၉ တောင် အနံ ၈၉ တောင် ရှိ၍ စတုရန်းပုံဖြစ်၏၊ အမြင့် ၇၇ တောင် ၆ မိုက် ရှိသည်ဟု မှတ်တမ်းတွေ့ရသည်၊ ဒါယကာမှာ (တူတော်စပ်သူ) ပုဂံမင်း ဖြစ်၏။

မည်သို့ မည်ပုံ ဆက်သွယ်ကြသနည်း။?

## ရွှေအတိတ်ဟောင်း သိကောင်းစရာ

အမရပူရမြို့တော်ကို ၁၁၄၄ ခုနှစ်တွင် ဘိုးတော်ဘုရားဟု လူသိများသော ပဒုံမင်းက စတင်၍ တည်၏၊ ထို့ကြောင့် နံသင့်အက္ခရာဖြင့် "အင်းအိုင်ဝိုင်းလည်, ဘိုးတော်တည်, မြို့မည်အမရ"ဟု မှတ်တမ်းထိုးခဲ့၏၊ မြဝတီမင်းကြီးဦးစကမှု "မန်းခေါင်ဗွေ ညာမြေမော့မှာ, ဘိုးတော့်ပြည်ကြီး"ဟု ဖွဲ့ဆိုသည်၊ ၃၇ နှစ် နန်းစံကာ သက္ကရာဇ် ၁၁၈၁ ခု နယုန်လတွင် နတ်ရွာလားခဲ့၏၊ အိမ်ရှေ့နန်းလျာထားသော သားတော်မှာ စောစောကပင် နတ်ရွာစံခဲ့ပြီ ဖြစ်သောကြောင့် မြေးတော် စစ်ကိုင်းမင်းခေါ် ဘကြီးတော်က ရွှေနန်းတော်ကို တက်၍ သိမ်းတော့သည်။

ဘကြီးတော်စစ်ကိုင်းမင်းသည် အရပ်သူ"မယ်နု" ကို ကောက်၍ နန်းမတော်မိဖုရား မြှောက်ခဲ့၏၊ "မယ်နုမှ မယ်နု တစ်နုတည်း ရှိ၏"ဟု လျှမ်းလျှမ်းတောက် ဖြစ်ခဲ့သည်။

သက္ကရာဇ် ၁၁၈၃ ခု ကဆုန်လတွင် အမရပူရမြို့ကို မီးလောင်၍ လွှတ်တော် ဗဟိုစင်ကြီးပါ မီးဝါးသွား၏။

ထို့ကြောင့် အင်းဝတွင် စတုတ္ထအကြိမ် ပြန်လည်ထူထောင်ကာ ပြောင်းရွှေ့စံတော့မည်ဟု ဆုံးဖြတ်လိုက်၏၊ ပြီးမှ ၁၁၈၅ ခုတွင် အင်းဝသို့ ပြောင်းရွှေ့နေသည်။

## ကျောက်တုံးကြီးနေပုံ ထူးဆန်းလှ

မင်းကြီးသည် ပန်းချီ ပန်းပု ပန်းတော့ ပန်းတမော့ ပညာတို့ကို မြတ်နိုး၏၊ ဝါသနာပါသည်၊ "ကျောက်သားဖြင့် ဘုရားတစ်ဆူ ထုလုပ်ရန်" စိတ်သန်နေခဲ့၏၊ ထို့ကြောင့် စကျင်တောင်သို့ ကျောက်တုံး အရှာလွှတ်ခဲ့ရာ အလျား ၁၅ တောင် အနံ ၉ တောင် ထု ၆ တောင် ၂ မိုက် ရှိသော ကျောက်တုံးကြီးကို မြေထဲမှ တူးဖော်ရရှိခဲ့၏။

ဆန်းကြယ်သည်မှာ ယင်းကျောက်တုံးကြီးကို နံဘေး သုံးဖက်မှ ကျောက်တိုင်ကြီး သုံးခုက ကာရံနေ၍ ကျောက်ပြားကြီး တစ်ချပ်က အထက်မှ ထီးကဲ့သို့ အုပ်မိုး၍ ထားသည်ကို တွေ့ကြရသတတ်။

အင်းဝနေပြည်တော်သို့ ဖောင်တော်ဖြင့် ပင့်ပြီးနောက် ၁၁၉၂ ခု နယုန်လထဲတွင် စတင်ထုလုပ်ကိုးကွယ်ခဲ့သည်၊ "မဟာသက္ကျရံသီ"ဟု ဘွဲ့မည်တော်ပေးခဲ့၏၊ သက္ကရာဇ် ၁၁၉၉ ခုတွင် သူ၏ညီတော် သာယာဝတီမင်းသားက နောင်တော် စစ်ကိုင်းမင်း (ဘကြီးတော်) လက်ထဲမှ ထီးနန်းကို လုယူသိမ်းပိုက်ခဲ့၏၊ ထို့နောက် သာယာဝတီမင်းသားသည် အမရပူရသို့ တစ်ပတ်ပြန်ကာ နန်းသစ်ဆောက်၍ ပြောင်းရွှေ့ စံပြန်သည်၊ နန်းစံ ၉ နှစ်မျှ ရှိသောအခါ ၁၂၀၈ ခု နှစ်တွင် သားတော် ပုဂံမင်းသားအား ထီးနန်း လွှဲအပ်ခဲ့တော့သည်။

## လိုဏ်ဂူစေတီကြီးဒါယကာပုဂံမင်း

ပုဂံမင်းကား ဝါသနာတစ်မျိုး ဖြစ်၏၊ ကြက်ချင်းတိုက်, နွားချင်းတိုက်, ကျွဲချင်းတိုက်, လူချင်းလက်ဝှေ့သတ် စသည်တို့၌ စိတ်ဝင်စား၏၊ ဆင် ဆိတ် သိုး ကြက် ငှက် လိပ်တို့တောင် အချင်းချင်း တိုက်ပေးပြီး ကြည့်ရှုမိန်းမောနေတတ်၏၊ တိုင်းရေးပြည်မှုကို စိတ်မဝင်စား၊ မင်းသားကျောက်လုံးတို့ ညီတော် မင်းတုန်းမင်းသား, ကနောင်မင်းသား စသည်တို့နှင့် လွှဲထားတတ်သည်၊ ဝါသနာတစ်မျိုးစီပင် ဖြစ်၏၊ ဘကြီးတော် စစ်ကိုင်းမင်း လက်ထက်တုန်းကတော့ ပန်းချီ ပန်းပု ပန်းတော့ ပန်းတမော့ ကြေးသွန်း ကျောက်ဆစ် စသည်တို့ကို စိတ်ဝင်စားနေခဲ့သည်။

**မှတ်ချက်။** ။ စစ်ကိုင်းမင်းကို (တူတော်ကြသော) ပုဂံမင်းသား, မင်းတုန်းမင်းသား, ကနောင်မင်းသားတို့က "ဘကြီးတော်မင်းတရား"ဟု ခေါ်ကြသတတ်၊ ထို့ကြောင့် အများကလည်း (ဘကြီးတော်မင်း စစ်ကိုင်းမင်း)ဟု ခေါ်တွင်နေကြသည်။

ပုဂံမင်းသည် ဤမျှလောက် အပျော်အပါးဘက်တွင် ဝါသနာထုံသော်လည်း ကုသိုလ်ရေးဘက်၌လည်း မေ့နေသူကား မဟုတ်ပါ၊ သူလုပ်ထားသော ဘုရား တန်ဆောင်း ဂူ ကျောင်း ပြာသာဒ်တို့ များစွာ ရှိပါ၏။

တစ်နေ့တွင် "ရတနာပူရ (အင်းဝ) စတုတ္ထမြို့တည် ဘကြီးတော် မင်းတရား ထုလုပ်ကိုးကွယ်ခဲ့သော (မဟာသကျရံသီ) ရုပ်ပွားဆင်းတုတော်ကြီးကို အမရပူရသို့ ပင့်၍ ကိုးကွယ်ရလျှင် ကောင်းချိမ့်မည်"ဟု အကြံတော် ဖြစ်၏။

ထိုအကြံအစည်အရ ပင့်ဆောင်၍ ရုပ်ပွားတော်ကြီး ကိန်းဝပ်ရန် လိုဏ်ဂူစေတီတော်ကြီးကိုလည်း သက္ကရာဇ် ၁၂၁၁ ခု ကဆုန်လ၌ တောင်သမန်မြရိပ်ကမ်းညွန့်ထိပ်ဝယ် တည်ဆောက်ထားပြီးလျှင် သွင်းနှံ့ကိုးကွယ်ထားသည်၊ ထို့ကြောင့် "တောင်သမန်ကျောက်တော်ကြီးဘုရား"ဟု အမည်တွင်ရပြန်လေသည်၊ ယင်း "တောင်သမန်ကျောက်တော်ကြီးဘုရားလိုဏ်ဂူတော်ကြီး"၏ သက်တမ်းမှာ နှစ်ပေါင်း ၁၃၀ ပင် ကျော်ခဲ့လေပြီ၊ အတွင်းနံရံ မျက်နှာကြက် ဆေးရေးပန်းချီတို့ကား ယခုတိုင် ထင်ရှားပီသ ပြတ်သားစွာ ဆေးရောင်စုံ မမှိန်ဘဲ ရှိခဲ့ကြလေသည်၊ ချီးမွမ်းဖွယ်တစ်ရပ် ဖြစ်၏။

## ညီတော်ပင့်ရာ၌ မကြွမလိုက်ပါ

သက္ကရာဇ် ၁၂၁၄ ခုတွင်ကား ညီတော် မင်းတုန်းမင်းသားက နောင်တော်ကြီး ပုဂံမင်းထံမှ ထီးနန်းကို လုယူပြန်လေသည်၊ ၁၂၂၁ ခုနှစ်တွင် မန္တလေးတောင်ခြေ၌ မြို့သစ် နန်းသစ်တည်ပြီးနောက် ရွှေ့ပြောင်းနန်းစံသောအခါ "တောင်သမန်ကျောက်တော်ကြီး ဆင်းတုတော်ကြီး"ကိုပါ ပင့်ပြန်၏၊ ပင့်၍ မရလေ၊ "ပလ္လင်ပေါ်မှ ကြွပင်မကြွ"ဟု အဆိုရှိကြ၏။

အမရပူရမှ အင်းဝသို့ သွား၍ ပင့်ကြစဉ်က လူပေါင်းသုံးထောင်ကျော် ပါဝင်ခဲ့ရ၏၊ ယခု အမရပူရမှ မန္တလေးသို့ ပင့်သောအခါတွင်လည်း ထိုလူဦးရေထက် လျော့နည်းမည်မဟုတ်ချေ၊ သို့သော်လည်း "အမရပူရ တောင်သမန်မှာပဲ အမြဲသီတင်းသုံးတော်မူတော့မည်"ဟု မိန့်မြွက်တော်မူသည့်အလား ပလ္လင်ကြီးပေါ်မှ လှုပ်ရုံမျှပင် မလှုပ်, အနည်းငယ်မျှ မကြွ, ပင့်၍ မရဟု အဆိုရှိကြသည်၊ ထိုအခါမှ မင်းတုန်းမင်းကြီး လက်လျှော့တော့သည် ဟူ၏။

ထိုသို့ လက်လျှော့ပြီးနောက် သက္ကရာဇ် ၁၂၂၆ ခုနှစ်တွင် စကျင်တောင်မှ နောက်ထပ် ကျောက်တုံး ရှာရပြန်သည်၊ ကျောက်တုံးရ၍ ထုလုပ်ရာ ၁၂၂၇ ခုနှစ်တွင် ပြီးစီးသဖြင့် "ကျောက်တော်ကြီး"အမည် ဖြင့် ယခုတည်နေရာ မန္တလေးတောင်ခြေမှာ သုဓမ္မာဇရပ်များ အနီးတွင် တည်ထားကိုးကွယ်ခဲ့ရသည်။

ထိုသို့ မန္တလေးသို့ မကြွ မလိုက်ပါသော "ကျောက်တော်ကြီးရုပ်ပွားတော် ကိန်းဝပ်ရာလိုဏ်ဂူစေတီတော်ကြီး"မှာ ယခုအခါ နှစ်ပေါင်း ၁၃၀ ကျော်လာပြီ ဖြစ်၍ ယိုယွင်း ပျက်စီးလာခဲ့ပြီ၊ အနိစ္စသဘောကို လက်တွေ့ပြ၍ ဟောတော်မူလေပြီ။

**စဏ္ဍာမှုလ္လာပဋိသင်္ခရဏံ သမ္မာသမ္ဗုဒ္ဓေန ဝဏ္ဏိတံ။** ကျိုးပဲ့ ပျက်စီးသမျှ ပြင်ဆင်ရမှုကို ဘုရားရှင်ကိုယ်တော်မြတ် ချီးမွမ်းတော်မူအပ်သည်"ဟူသော စကားအရ ယခုအခါ ယိုယွင်းလာမှုတို့ကို ပြင်ဆင်ဖို့အချိန် ရောက်လာတော့၏။

## စေတီကောင်းလျက် ညောင်ပင်ဖျက်

ပြင်ဆင်နိုင်ဖို့အခွင့်လည်း တစ်မျိုးတစ်ဖုံ ကြုံလာတော့သည်၊ တစ်နေ့သောအခါတွင် မန္တလေးမြို့ မျက်ပါးရပ်မှ ဒေါ်သက်ရှည်, ဒေါ်ဆွေ, ဒေါ်သိန်းမေတို့ ညီအစ်မ တစ်စုက မဟာဂန္ဓာရုံသို့ လာ၍ ကျောင်းတွင်းမှ စေတီတော်၏ ထီးကို ရွှေချပူဇော်လိုပါကြောင်း ဆရာတော်အား လျှောက်ထားကြ၏၊ ထိုအချိန်တွင် ကျောင်းတွင်းစေတီ ထီးတော်မှာ အများကောင်းမှုဖြင့် ရွှေသက်န်းကပ်လှူပြီး ဖြစ်နေလေပြီ။

ထို့ကြောင့် ဆရာတော်က "လိုအပ်တဲ့ နေရာမှာ ကပ်လှူပါ၊ အခု ဘုန်းကြီးကျောင်းကနေပြီး လှမ်းဖူးနေရတဲ့ တောင်သမန်ဘက်က ကျောက်တော်ကြီး ဘုရားထီးဆိုရင် တော်တော်မည်းနေပြီ၊ ရွှေတွေကုန်သလောက် ဖြစ်နေဟန်တူတယ်၊ အဲဒီ ထီးတော်ကို မွမ်းမံပါ"ဟု အမိန့်ရှိလိုက်၏၊ ထိုညီအစ်မတစ်စုတို့လည်း ဝမ်းမြောက်ဝမ်းသာ လက်ခံသွားကြသည်။

ထိုညွှန်ကြားချက်အရ ထီးတော်ကြီးကို အောက်သို့ ပင့်ဖို့ရန် မဟာဂန္ဓာရုံကျောင်းတိုက် ဆွမ်းစားကျောင်းဘုန်းကြီး ဦးအဂ္ဂဝံသ ခေါင်းဆောင်သော သံဃာအချို့နှင့် ဘုရားအနီးအပါးမှ တောင်သမန်ရွာ, ထန်းတောရွာ, အိုးဖိုရွာ ဒါယကာ ဒါယိကာမများ စုဝေး တိုင်ပင်ကြရ၏၊ ငြမ်းဆင်ပြီးနောက် အပေါ်သို့ တက်ကြသောအခါ လိုဏ်ဂူစေတီတော်ကြီး အပေါ်ပိုင်းတွင် ညောင်ပင်စသော သစ်ပင်မျိုးစုံတို့က လွှမ်းမိုးမင်းမူနေကြသည်ကို တွေ့ကြရ၏။

သစ်ပင်ကြီးများမှာ အတော်ပင် ကြီးနေကြပြီ၊ ပင်စည် ပင်လုံးတို့ဖြင့် အုတ်ကြားများတွင် ဝင်၍ ကလန့်ဖွဲ့နေကြပြီ၊ စေတီတော်ကြီး ကိုယ်တွင်းသို့လည်း ဝင်၍ ဖွဲ့နေကြပြီ၊ အချို့နေရာများတွင် အင်္ဂတေအမိုးများ ကွဲအက်လန်၍ မိုးရေများပင် ယိုကျနေပြီးကို တွေ့ကြရ၏။

ထီးတော်ကြီးကို အောက်သို့ ပင့်ချပြီးနောက် ကျောင်းသို့ ပြန်ရောက်သောအခါ သစ်ပင်များ လွှမ်းမိုးနေသည့်အကြောင်းကို ဆွမ်းစားကျောင်းဘုန်းကြီး ဦးအဂ္ဂဝံသက ဆရာတော်ကြီး အရှင်ဇနကာဘိဝံသအား လျှောက်ကြားတော့၏၊ အကြောင်းစုံ ကြားသိရသဖြင့် ဆရာတော်ကြီး စိတ်မချမ်းမသာ ဖြစ်ရတော့သည်။

## ပူဇော်အထူးကိုခံ အရဟံဂုဏ်တော်

ဆရာတော်ကြီးက အမိန့်ရှိ၏၊ "ကဲ-ဒီလိုဆိုရင် အဲဒီသစ်ပင်တွေ အားလုံးကို တစ်နေ့လျှင် လုပ်သား ၁၀ ယောက်လောက်ဖြင့် နေ့စဉ် ရှင်းလင်းပါ၊ အားလုံးကုန်သည့်တိုင်အောင် သုတ်သင်ပါ၊ ကုန်ကျသမျှကို ဘုန်းကြီးတာဝန် ရှိပါစေ၊ ဦးအဂ္ဂဝံသက စီမံပါ"ဟု မိန့်တော့သည်၊ ထိုအမိန့်အရ ကြောင့်ကြစိုက်ရာ ကြာလေ သုတ်သင်စရာတွေ ပြုပြင်စရာတွေ များလာသည်ကို တွေ့ရလေ ဖြစ်တော့၏။

ဘုရားပေါ်သာမက ဘုရားဝင်းကြီးထဲမှာလည်း သွားလာ၍ မရအောင် သစ်ပင် ကြီးငယ် ချုံနွယ် ပိတ်ပေါင်းတို့ဖြင့် တောထနေခြင်း, ဘုရားဝင်းကြီးကလည်း ၈ ဧကခန့်မျှ ကျယ်ဝန်းလှခြင်း, ပတ်ဝန်းကျင် အုတ်တံတိုင်းကြီးတို့ အပေါ်၌လည်း သစ်ပင်များပေါက်၍ ပျက်စီးနေကြခြင်းတို့ဖြင့် အချို့နေရာတွင် အတော်ယိုယွင်းနေကြပြီတို့ကို တွေ့နေရသည်။

ထိုအကြောင်းအရာတို့ကိုပါ လျှောက်ထားရာ ဆရာတော်မှာ ကိုယ်ပိုင်ရှိသော နဝကမ္မ (ငွေ)မျှဖြင့် မတတ်နိုင်အောင် ဖြစ်၍ နေရတော့၏။

သို့နှင့် မြတ်စွာဘုရား၏ "ပူဇော်အထူးကို ခံတော်မူထိုက်သော အရဟံဂုဏ်တော်"ကိုသာ အထပ်ထပ် အဖုံဖုံ အာရုံပြုနေမိသည် ဆို၏၊ ထိုအခါ ဟိုမှ ဒီမှ နီးစပ်ရာ ဒါယကာ ဒါယိကာမတို့ ရောက်လာကြပြီး "ဘုရားနှင့်စပ်၍သန့်ရှင်းပြုပြင်ရာတွင် တပည့်တော်များလည်း ကုသိုလ်ပါဝင်ပါရစေ"ဟု ဆိုကာ အလှူငွေများကို ကပ္ပိယဒါယကာကြီးထံ အပ်နှံကြတော့၏၊ မန္တလေး ရွှေမြင်း လက်ဖက်ခြောက် လုပ်ငန်းမှ ကျောင်းဒါယကာ ကျောင်းအမ ဦးထွန်းလှိုင်+ဒေါ်သိန်း တို့က ဆိုလျှင် ဤသို့ သန့်ရှင်းပြုပြင်ရာတွင် အသုံးပြုဖို့ ကပ္ပိယဒါယကာကြီးထံမှာ ငွေနှစ်သောင်းလာ၍ အပ်နှံကြတော့သည်၊ အံ့အားသင့်စရာပေ၊ မြတ်စွာဘုရား၏ ပူဇော်အထူးကိုခံ အရဟံဂုဏ်တော်ကြောင့်ပေတကား။

## ဗုဒ္ဓဝေယျာဝစ္စ အကျိုးကြီးမားလှ

ဤသို့ဖြင့် တဖြည်းဖြည်း သန့်ရှင်းရေးလုပ်ခဲ့ကြရာ လိုဏ်ဂူစေတီတော်ကြီးရော, ဘုရားဝင်းကြီး တစ်ခုလုံးပါ ကြည့်သာ ရှုသာ အခြေအနေသို့ ရောက်လာခဲ့တော့၏၊ သို့ရာတွင် လိုဏ်ဂူစေတီတော်ကြီး၌ ယိုယွင်းခဲ့သမျှတွေကို မူလအခြေအနေသို့ ပြန်ရောက်အောင် ပြုပြင်ဖို့ရာမှာကား များစွာ ကုန်ကျဦးမည် ဖြစ်သည်။

စေတီတော်ကြီး၏ ပတ်လည် အာရုံခံအုတ်သားအမိုးတွေက မိုးယိုနေကြပြီ၊ မျက်နှာကြက်တွေကလည်း ပေါက်နေကြပြီ၊ ထုပ်လျှောက် ဒိုင်းမြားကြီးတွေကလည်း ဆွေးမြေ့နေကြပြီ၊ အပြင်က ကြည့်သာ ရှုသာ ရှိသလောက် အတွင်းပိုင်းသို့ ရောက်လျှင်ကား ပြုပြင်စရာတွေ များလှသည်ကို တွေ့ရမည် ဖြစ်၏၊ ဤမျှ များပြားလှသည်ကို ဆရာတော် မတတ်နိုင်, သို့ဖြစ်၍ "အရဟံ"ဂုဏ်တော်ကိုပင် ဆက်လက် အာရုံပြု၍ နေရပြန်တော့သည် ဟူ၏။

ယခုအခါတွင်ကား ဆရာတော်က တတ်နိုင်သမျှသာ ဆောင်ရွက်နေခြင်း ဖြစ်သည်၊ စေတီတော်ကြီးအတွင်း လိုဏ်ခေါင်းများ၌ အနှစ်နှစ်အလလက လင်းနို့များ ခိုအောင်းလာခဲ့ကြသည်၊ သို့ဖြစ်၍ အချိန် ကြာမြင့်စွာ ဘုရား အာရုံမပြုနိုင်လောက်အောင် လင်းနို့ချေးနံ့ လင်းနို့သေးနံ့များ တလှောင်းလှောင်း, တထောင်းထောင်း နံ့စော်နေခဲ့သည်၊ "ဤသည်ကို့ကို သန့်ရှင်းရေးလုပ်ပါ"ဟု ဆရာတော်က ဦးအဂ္ဂဝံသအား မိန့်ကြားခဲ့သည်။

ထို့ကြောင့် ဦးအဂ္ဂဝံသ ဦးဆောင်သော မဟာဂန္ဓာရုံသံဃာ ၃၀ ခန့်သည် ဘုရားဝင်းကြီး၏ အပြင်ဘက်၌ရှိသော ရေတွင်းကြီးမှ ရေတို့ကို သယ်၍ ဆေးကြောသုတ်သင်ခဲ့ရာ ရေတွင်းကြီးတစ်ခုလုံး ရေတွေ ကုန်သည်အထိ ဖြစ်ခဲ့၏။

ဆင်းတုတော်ရုပ်ပွားး၏ မျက်နှာတော်မှစ၍ တစ်ကိုယ်တော်လုံးအပြင် ပတ်ဝန်းကျင်၌ ညစ်ထပ်နေသည်တို့ကိုပါ ပွတ်တိုက် ဆေးကြောသုတ်သင်ကြရ၏၊ ရုပ်ပွားတော်၏ အပေါ်မှ သစ်သားမျက်နှာကြက်တို့မှာလည်း ပျက်စီးယိုယွင်းနေကြသည့်အပြင် လင်းနို့ချေးတို့ဖြင့် အပုံအပုံလွှမ်းနေကြ၏၊ ထို့ကြောင့် အားလုံးကို ဖျက်ချ၍ ဆေးကြောကြရာ အမိုးတစ်ခုလုံး သန့်ရှင်းသွားကြတော့သည်။

## ဖောင်းတော်ကြီး တညီတည်ညီတည်နဲ့

သို့သော် တစ်ခုခက်နေသည်ကား ရုပ်ပွားတော်ကြီး၏ ခေါင်းပေါ်က ဖောင်းတော်မကိုဋ်ကြီးများအတွင်း၌ရှိသော လင်းနို့ချေးတို့ပင် ဖြစ်နေ၏၊ သုတ်သင်ဖို့ရာ ခက်နေသည်၊ ယူ၍မဖြစ်, ငင်၍မရ ဖြစ်နေ၏၊ ဤရုပ်ပွားတော်ကြီးမှာ ဇမ္ဗူပတိမင်းချွတ်ခန်းပုံ ဖြစ်သည်၊ ခေါင်းပေါ်၌ ဖောင်းတော်မကိုဋ် ရှိ၏။

ခန္ဓာကိုယ်ပေါ် ပခုံးနှစ်ဖက်တို့၌ စလွယ်တော်များ သိုင်းလျက် အပြည့်အစုံ ဆင်မြန်းထားကြ၏၊ သုတ်သင် သန့်ရှင်း၍ မဖြစ်နိုင်အောင် အကျဉ်းအကြပ် ဖြစ်နေသည်၊ ဖောင်းတော်ကိုလည်း မဖယ်ဝံ့, မဖြုတ်ဝံ့ ဖြစ်နေသည်၊ ထို့ကြောင့် ဦးအဂ္ဂဝံသက ဆရာတော်အား သွား၍ လျှောက်ရသည်၊ ထိုအခါ ဆရာတော် အရှင် ဇနကာဘိဝံသက ဤသို့ အမိန့်ရှိ၏။

"ဦးအဂ္ဂဝံသ-ဘုရားကို သက်တော်ရှိတဲ့အနေနှင့် စဉ်းစားလိုက်စမ်းပါ၊ ဘုန်းကြီးတို့ ဘုရားဟာ တောမထွက်ခင်တုန်းက နန်းမသုံးဆောင်နဲ့, မိဖုရားအခြံအရံတွေ များစွာနဲ့ စကြာမင်း စည်းစိမ်တမျှ ကျကျနန ချမ်းချမ်း သာသာ ခံစား စံစားလာခဲ့တယ်၊ နောက်ဒါတွေကို အပြစ်မြင်လို့ အားလုံးကို စွန့်ပယ်ပြီး တောထွက်ခဲ့တယ်၊ ဉရုဝေလတောမှာ ဘုရားဖြစ်ကြောင်း အကျင့်တွေကို ကျင့်လို့ ဘုရားဖြစ်လာခဲ့တယ်၊ အခုလို သဗ္ဗညုတဉာဏ်တော်သခင် ဘုရားရှင်ကိုယ်တော်မြတ်ကြီးဖြစ်လာကာမှ (ရှင်ဘုရင်ဘဝတုန်းက ဖောင်းတော်မကိုဋ်နှင့် ဆင်မြန်းခဲ့တဲ့ စလွယ်ကြီးကို) သံယောဇဉ်တွယ် မက်မောနေဦးမလား စဉ်းစားစမ်းပါ၊ ပြီးတော့ သက်တော်ထင်ရှားဘုရားအား အဲဒီ ဖောင်းတော်မကိုဋ်ကြီးတွေ စလွယ်ကြီးတွေ သွားပြီး ကပ်လှူကြည့်စမ်းပါ၊ သဘောကျစွာနဲ့ လက်ခံထားမလား၊ လက်ခံထားပြီး ဖောင်းတော်ကို ခေါင်းတော်မှာ စွပ်၍ တရားနာလာကြတဲ့ ပရိသတ်တွေကို (ဦးခေါင်းတော်ကြီးတညိတ်ညိတ်နှင့်) ဧည့်ခံစကားပြောနေမယ် ထင်သလား၊ သဘာဝကို စဉ်းစားကြည့်စမ်းပါ"

## ဇမ္ဗူ့ပတိချွတ်ခန်း ဘယ်မှာ ရှိသလဲ

ဤသို့ အမိန့်ရှိလိုက်သောအခါ ဦးအဂ္ဂဝံသမှာ သဘောပေါက်သွားတော့၏၊ မကိုဋ္ဌစလွယ်ကြီးတို့ကို ဘုရားမှာတတ်ဆင်ခြင်းအတွက် ဆရာတော် မနှစ်သက်သည်ကိုနားလည်သွားတော့၏၊ ဘုရားမှ မကိုဋ္ဌ စလွယ်ကြီးတို့ကို ဖယ်ရှားပစ်ဖို့ရန် စိတ်ရဲသွားတော့သည်၊ ဟုတ်ပြီ၊ ဘုရားမကြိုက်နိုင်တဲ့ အဆောင်အယောင်တွေကို ဘယ်လိုလူတွေကစပြီး တပ်ဆင်နေကြပါလိမ့်မလဲ, ဘာလို့ တပ်ဆင်ကြတာလဲ, ဘယ်နည်းနဲ့မှ ဘုရား ကြိုက်နိုင်မှာ မဟုတ်ဘူး၊ ဘယ်တုန်းကများ စခဲ့ပါလိမ့်၊ နှစ်ကာလ ကြာညောင်း၍ တွင်ကျယ်လာခဲ့သော ကိစ္စကြီးတစ်ခုကို တော်လှန်ဖို့ မလွယ်၊ တော်လည်း မတော်လှန်ဝံ့ဖြစ်ခဲ့ဟန်တူသည်ဟု ဦးအဂ္ဂဝံသ စဉ်းစားနေမိသည်၊ ထို့နောက် ဆရာတော်က ဆက်လက် မိန့်ပြန်၏။...

"ဘုန်းကြီးတို့ လူ့လောကမှာ ရှင်ဘုရင်လုပ်ချင်တဲ့သူတွေ ပေါတယ်၊ ရှင်ဘုရင်ကိုလဲ အထင်ကြီးတယ်၊ မြတ်နိုးတယ်၊ အထွတ်အမြတ်ထားတယ်၊ ဘုရင်ကို အထွတ်အမြတ်ထားတော့ သူ့ရဲ့ပုံပန်း အဆောင်အယောင်ကိုပါ မြတ်နိုး တန်ဖိုးထားလာတော့တာပေါ့၊ အဲဒီလူတွေက အထွတ်အမြတ်ထားဖို့အတွက် ရုပ်တုတော်ထုတဲ့အခါ ရှင်ဘုရင်ရဲ့ အဆောင်အယောင်တွေပါ တပ်ဆင်ကုန်ကြရော၊ ရိုးရိုး သာမန်လူတွေက ဤဘုရားကုသိုလ်ကြောင့် ဘဝသံသရာမှာ ရှင်ဘုရင်ဖြစ်ချင်ကြ, ရှင်ဘုရင်ဖြစ်ပြီးသားသူတွေကလဲ သူတို့ရဲ့ အထွတ်အမြတ် အဆောင်အယောင်တွေ တပ်ဆင်တာ သဘောကျ, အဲဒီက စလာကြဟန်တူပါရဲ့၊ တချို့က ပြောကြပြန်တယ်၊ "ဇမ္ဗူ့ပတိမင်းချွတ်ခန်း"တဲ့၊ ဇမ္ဗူ့ပတိမင်းကြီးဟာ မာနကြီးလွန်းလို့ ဘုရားကလဲ သူ့ထက် လှပသာလွန်တဲ့ ရှင်ဘုရင်ပုံ ဖန်ဆင်းပြပြီး ချွတ်တာတဲ့။

အဲဒီ အကြောင်းအရာဟာ ပိဋကတ်သုံးပုံ, ဘယ်ပါဠိတော် အဋ္ဌကထာ ဋီကာတို့မှာမှ မရှိပါဘူး၊ ထေရဝါဒသာသနာက လက်မခံတဲ့ (ဇင်းမယ်ပဏ္ဏာသ ပါဠိတော်)ထဲမှာ ပါတယ်လို့ ဆိုကြပြန်တယ်၊ ဒါလဲ မိုးကုတ်က ခါတော်မှီဆရာတော် အရှင်ပညိန္ဒာဘိဝံသကတော့ "ဇင်းမယ်ပဏ္ဏာသမှာလဲ မတွေ့ပါဘူး"လို့ ပြောတယ်၊ အမှန်ကတော့ ခေမာမိဖုရားချွတ်ခန်းမှာ မြတ်စွာဘုရားက ခေမာမိဖုရားလှသည်ထက် သာလွန်တဲ့ အမျိုးသမီးကလေး ဖန်ဆင်းပြပြီး ချွတ်တာကို အတုခိုးတာ ထင်ပါရဲ့၊ ဒါပေမယ့် ခေမာမိဖုရား အခိုင်အမာ ဇာတ်လမ်းတော့ မရှိပါဘူး။

## ဘုရားရုပ်တုကို အသက်ရှိလို ထင်ပါ

ဤသို့ မိန့်ကြားချက်ကို နာခံခဲ့ပြီး ဘုန်းကြီး ဦးအဂ္ဂဝံသသည် ဘုရားခေါင်းတော်ပေါ်မှ ဗောင်းတော် မကိုဋ္ဌ်ကြီးကိုရော, စလွယ်ကြီးတို့ကိုရော ဖြုတ်ချပြီး ဆေးကြောသုတ်သင်တော့၏၊ ဗောင်းတော်ကြီးထဲမှပင် လင်းနို့ချေးတွေ တစ်တင်းခွဲသားလောက် ထွက်လာကြသည်၊ ဗောင်းတော်ကြီးကလည်း အကြီးကြီးဖြစ်၏၊ ဘုရားရုပ်ပွားတော်ကြီး၏ မဏိ(ဦးခေါင်း)တော်လုံးပတ်ပင်လျှင် ရှစ်တောင်နှင့် လက်လေးသစ် ရှိသည်၊ ယင်းကို ပိတ်မိအောင် ပြုလုပ်ထားသော ဗောင်းတော်ကြီး ဖြစ်၏၊ ဉာဏ်တော်ကြီးကလည်း အမြင့်ကြီး ဖြစ်သည်။

ဆရာတော်က အမိန့်ရှိသေး၏၊

"မြန်မာပြည်မှာ အနှံ့အပြားပဲ ရုပ်ပွားတော်တွေကို တောင်တည် မြောက်တည်နဲ့ လုပ်ကြတာ ဘုန်းကြီးတော့ မကြိုက်ပါဘူး၊ ဘုန်းကြီးတို့ ဘုရားက လူ့လောက နတ်လောက ဗြဟ္မာလောကမှာ အသာဆုံး အချောဆုံး အခုလူတွေ ထုလုပ်ထားကြတာက လူလောက် တောင်မှ မချောဘူး။

ဘုန်းကြီးက ဘုရားကို မကြည်ညိုလို့ မဟုတ်ပါဘူး၊ အကြည်ညို လွန်တာပါ၊ ဒီကျောက်တော်ကြီး ဘုရားကြီးကတော့ ကျောက်သားရော လက်ရာရော အကောင်းဆုံးပဲ။

ဒါကို မြန်မာနိုင်ငံ၌ ပျက်စီးမှာစိုးလို့ ဘုန်းကြီးက ကြောင့်ကြစိုက်နေတာပါ။

## လှူနိုင်သူတို့သာ စန်းပွင့်

ဤသို့ အညစ်အကြေးဟူသမျှကို သန့်ရှင်းရေး ပြုလုပ်ပြီးသောအခါ အများက မေးကြ၏၊ "ဗောင်းတော် မကိုဋ်ကြီးတွေကို ဘယ်တော့ ပြန်တင်မှာလဲ, စလွယ်ကြီးတွေရော ဘယ်တော့ ပြန်ဆင်မှာလဲ"ဟု တမေးတည်း မေးနေကြတော့သတတ်၊ ဤကဲ့သို့ပင် မဆင်မခြင်တတ်သောသူတို့ကလည်း ဘုရားရှင်ကို (ရှင်ဘုရင်ကဲ့သို့) အထွတ်တင် ဆင်မြန်းထားသည်ကို မြင်ချင်ကြ၏, သဘောကျကြ၏, သူတို့ကြောင့်ပင် ပို၍ ပို၍ခက်နေရတော့သည်၊ ဤသို့ သုတ်သင်ရှင်းလင်းပြီးသောအခါ လိုဏ်ဂူအတွင်း ဘုရားပေါ်မှ မျက်နှာကြက်ကြီးကို ပြုပြင်ဖို့အခွင့် ရောက်လာတော့၏၊ ယင်းမျက်နှာကြက်ကြီးအတွက် ပြုပြင်ရန် မန္တလေးမြို့ ဝါးတန်းရပ်မှ ရွှေကုန်သည် ကျောင်းအမ ဒေါ်ညွန့်ညွန့် ဒေါ်သန်းသန်း ညီအစ်မတစ်စုတို့က တာဝန်ယူသွားကြတော့သည်။

စွမ်းနိုင်သူတို့သာ လှူနိုင်ကြ၏၊ လှူနိုင်ကြသူတို့သာ ဘဝသံသရာစခန်းတွင် မျက်နှာပန်း ပွင့်ကြဦးမည်သာတည်း။

## အာရုံခံတန်ဆောင်းကြီး ပြုပြင်မည့်သူ

### ဘုန်းကံရှိသူတို့သာ အရာရာ အခွင့်သာ

ခြင်္သေ့ဆီသည် သိင်္ဂီရွှေခွက်၌သာ တည်သလို အတုမရှိ မွန်မြတ်သော ဘုရားကိုယ်စား ရုပ်ပွားဓာတ်တော်တို့သည်လည်း ထိုက်ထိုက်တန်တန် လက်ခံ၍ ထိုက်ထိုက်တန်တန် ကျင့်ကြံအားထုတ်သော ပုဂ္ဂိုလ်တို့၏ အထံ၌သာ တည်တော်မူကြ၏၊ ဤသည်ကား ဓမ္မတာပင် ဖြစ်သည်၊ ထို့အတူပင် ဘုန်းတော်သခင် ဘုရားရှင်တို့နှင့် ပတ်သက်သော ကိစ္စဟူသမျှတို့သည်လည်း ဘုန်းကံရှိသူတို့၏ အထံ၌သာ ရပ်နားကြ၍ ဘုန်းကံရှိသူတို့သည်သာ ဆောင်ရွက်နိုင်ခွင့် ရကြကုန်၏။ ယခု ဤကျောက်တော်ကြီးဘုရားကိစ္စ၌လည်း ဤသို့ပင် နားလည်ရတော့သည်၊ ဤဘုရားကြီးနှင့် ပတ်သက်၍ ယိုယွင်းနေသမျှတွေကို ပြုပြင်မွမ်းမံလိုသောပုဂ္ဂိုလ်, ပြုပြင်ရန် ကြံစည်သော ပုဂ္ဂိုလ်တွေ များစွာ ရှိမည်သာ၊ သို့ရာတွင် ပြုပြင်ဖို့ရာ အခွင့်မသာခဲ့။

ဘုန်းကံရှိ၍ ပြုခွင့်ကြုံသောပုဂ္ဂိုလ်တို့သည်သာ ဦးစွာပထမ ထီးတော်ကြီးကို ရွှေချကြကုန်၏၊ ဒုတိယ သန့်ရှင်းသုတ်သင်ရေး ပြုနိုင်ကြ၏၊ တတိယ မျက်နှာကြက်ကြီးကို ပြုပြင်လှူဒါန်းနိုင်ကြ၏၊ စတုတ္ထ စေတီပတ်လည် အာရုံခံတန်ဆောင်းကြီး တစ်ခုလုံးကိုပါ ပြုပြင်မည့်သူ ပေါ်လာရတော့သည်။

**သာသနံ ပုညဝန္တဿ, ပုညဝန္တာဝ လဗ္ဘရေ၊**
**အပ္ပပုညာ ကရဟာစိ, ပဂ္ဂဏှိတုမဝိသယာ။**

"ဘုန်းကံကြီးမားသော ဘုရားရှင်၏ သာသနာတော်ကို ဘုန်းကံရှိသူတို့သာ ချီးမြှောက်ထောက်ပံ့ခွင့်ရကြကုန်၏၊ ဘုန်းကံနည်းပါးသူတို့ကား တစ်ကြိမ်တစ်ခါမျှ ချီးမြှောက်ဖို့ အလှည့်မရ, အရာမဟုတ်ကြသဖြင့် ဝေးဝေးကပင် ရှောင်ကြလေသည်။"

## ကျောင်းထိုင်ဘုန်းကြီးသင်တန်းဖွင့်လှစ်ရေး

တစ်နေ့သောအခါတွင် မန္တလေးမြို့ ပိုက်ကျုံးရပ်မှ စက်သူဌေး ဦးသာဌေး ဇနီး ဒေါ်သန်းတို့က အမရပူရ မဟာဂန္ဓာရုံဆရာတော်ဘုရားကြီးကို မိမိတို့ နေအိမ်တိုက်တာသို့ ပင့်၍ လျှောက်ထားကြ၏။

"ဆရာတော်ဘုရား...သာသနာတော်မှာ ဆရာတော်ပြုလိုတဲ့ သာသနာ့ရေးကိစ္စလုပ်ငန်းတစ်ခုခုကို အမိန့်ရှိပါ၊ တပည့်တော်တို့က ဂဏန်းအပိုင်းအခြားမထားတဲ့ ပစ္စည်း လေးပါးဖြင့် အပ်အပ် စပ်စပ် ထောက်ပံ့လိုပါတယ်၊ ဆရာတော် အလိုရှိရာ မိန့်မြွက်တော်မူပါ"ဟု လျှောက်ထားဖိတ်မန်ကြသည်၊ ထိုအခါ ဆရာတော်က အမိန့်ရှိခွင့် ရလာတော့၏။

"ဘုန်းကြီးမှာ ကြာမြင့်စွာသော ကာလမှ စ၍ အာသာဆန္ဒ ပြင်းပြစွာနဲ့ ပြုလုပ်ချင်လာခဲ့တဲ့ သာသနာပြုလုပ်ငန်းကြီးတစ်ခုရှိတယ်၊ အဲဒါက ဘာလဲဆိုရင် "ကျောင်းထိုင်ဘုန်းကြီးသင်တန်း" ဖွင့်လှစ်ရေးပါပဲ။

မြန်မာနိုင်ငံ ကျေးလက်အနှံ့အပြားမှာ (က) ကျောင်းထိုင်နေဆဲဖြစ်တဲ့ ဘုန်းတော်ကြီးများ၊ (ခ) ကျောင်းထိုင်ဖို့ရန် အချိန်တန်နေတဲ့ ရဟန်းတော်များကို အပိုင်းအခြား အရေအတွက်နှင့် ပင့်ခေါ်လက်ခံမယ်၊ ပြီးတော့ ကျောင်းထိုင်ဘုန်းကြီးများမှာ ရှိသင့်ရှိထိုက်တဲ့ အရည်အချင်းများပြည့်စုံအောင် သင်ကြားပို့ချပေးမယ်၊ တစ်ကြိမ်ပြီးတစ်ကြိမ် တစ်နိုင်ငံလုံးနှံ့အောင် ပင့်ခေါ်ပြီး ပို့ချပေးမယ်၊ အဲဒီလိုသာ ပြုပေးလိုက်ရရင် ရပ်သူ ရွာသား ကလေးသူငယ်များကို ယဉ်ကျေးမှု သင်ကြားပေးနိုင်တဲ့ ဘုန်းကြီးတွေ ပေါ်ပေါက်လာမယ်၊ ပြီးတော့ အဲဒီဘုန်းကြီးတွေကမှတစ်ဆင့် ပေါက်ဖွားလာမယ့် သာသနာ့အမြစ်, သာသနာ့ အညွန့်အညှောက်ကလေးတွေဟာ ပုံစံသွင်းထားတဲ့အတိုင်း (ကိုယ်လိုချင်သလို) ရှင်သန်ကြီးထွားလာကြမယ်။

အဲဒီအခါမှာ သာသနာတော်ကြီးဟာလဲ သပ်သပ် ရပ်ရပ်နဲ့ ဂုဏ်ရှိ သိန်ရှိ၊ မြန်မာပြည်ရဲ့ အထွတ်သရဖူကြီး ဖြစ်လာမယ်လို့ ဘုန်းကြီး ယုံကြည်နေတယ်၊ အဲဒါအတွက် ဘုန်းကြီး ဆောင်ရွက်ချင်နေတယ်၊ အဲဒီကိစ္စ ဆောင်ရွက်တဲ့အခါ သံဃာတော်များ နေဖို့ မိုးလုံလေလုံ ခပ်ကြမ်းကြမ်း အဆောက်အအုံ, သင့်တော်ရုံ သင်တန်းခန်းမ, သင်တန်းမှာသုံးစွဲရမယ့် ပရိဘောဂများ, သင်တန်းအထောက်အကူပြု ပစ္စည်းများနှင့် အခြားလိုအပ်ရာရာတွေ ရှိလာမယ်"ဟု အမိန့်ရှိသောအခါ...

"အရှင်ဘုရား လိုအပ်သမျှ သိန်းပေါင်းဘယ်လောက်ပဲ ကုန်ကုန်, ပြည့်စုံအောင် ထောက်ပံ့ပါမယ် ဘုရား"ဟု လျှောက်ထား ကတိပေးကြသည်၊ အံ့ဩစရာပင်တည်း၊ သာသနာတော်ကြီးအတွက် မဖော်ပြနိုင်သော ဝမ်းမြောက်စရာကြီးပေတကား။

## သုဂတိလက်မှတ်များ ဖြတ်ထားသည့်ဟန်

သို့ရာတွင် ဆရာတော်က ဆက်လက်၍ အမိန့်ရှိပြန်၏၊ "ဘုန်းကြီးမှာ အဲဒီ ကျောင်းထိုင်ဘုန်းကြီး သင်တန်း မစနိုင်သေးခင် ယခုလက်ရှိ ဆောင်ရွက်နေဆဲ အလုပ်တစ်ခုလဲ ရှိပါသေးတယ်၊ အဲဒါက တောင်သမန်ကျောက်တော်ကြီးဘုရား ပြုပြင်မွမ်းမံရေးပါပဲ၊ အဲဒါကလဲ စေတီကြီးပတ်လည် အာရုံခံအမိုးကြီးတစ်ခုလုံး ယိုယွင်းပျက်စီးနေပြီ ဖြစ်လို့ ပြန်လည်ပြုပြင်ရရင် တော်တော်ကုန်မယ်လို့ ခန့်မှန်းကြတယ်"ဟု အမိန့်ရှိသောအခါ.....

"အဲဒါအတွက်လဲ တပည့်တော်တို့က အကုန်တာဝန်ယူပါတယ်ဘုရား"ဟု လျှောက်ထားကြပြန်၏၊ ချီးကျူး အံ့ဩဖွယ်ပေတကား၊ စကြဝဠာ ကမ္ဘာမြေမိုး ဖြန်းဖြန်းကျိုးမျှ တန်ခိုးတော်အနန္တသခင်ဘုရားရှင်ကိုယ်တော်မြတ်ကြီးကား အရဟံဂုဏ်တော်အရ အမှန်ပင် ပူဇော်အထူးကို ခံယူတော်မူလေပြီ။

ဦးသာဌေး+ဒေါ်သန်း သားသမီးမြေးမြစ်မိသားစုတို့ကလည်း နိမိကဏ္ဍာသုတ်လာ ရွှေအိုးမြှုပ်ရာဌာနအစစ်ဖြစ်သည့် နေရာတို့၌ သူတို့၏ ရတနာတို့ကို မှန်ကန်စွာ မြှုပ်နှံကြလေပြီ၊ ဘဝသံသရာစခန်းမှာ အစဉ်ထာဝရ မျက်နှာမငယ်ရဖို့နှင့် လိုသောအခါတွင် တူးဖော်စားသုံးနိုင်ဖို့ အကျိုး ကုသိုလ်ရွှေအိုး မြှုပ်ခြင်း ဖြစ်တော့သတည်း။

ထို့နောက် နိုင်ငံတော်အစိုးရ ယဉ်ကျေးမှုဝန်ကြီးဌာနသို့ မေတ္တာရပ်ခံ အသိပေးသောအခါ ထိုဌာနကလည်း ဝမ်းမြောက်ဝမ်းသာ လက်ခံသဘောတူ၏၊ ဆရာတော်ဘုရားကြီး အလိုရှိသလို ပြုပြင်မွမ်းမံနိုင်ပါကြောင်း ပြန်ကြားလျှောက်ထားခဲ့သည်။

ဤနည်းဖြင့် ပြုပြင်ရေးကိစ္စကို စတင် စီမံကြတော့၏။

ကုသိုလ်ရှင်များဖြစ်ကြသည့် ဦးသာဌေး+ဒေါ်သန်း သားသမီးမြေးမြစ်မိသားစုများနှင့် မျက်နှာကြက်ကုသိုလ်ရှင်, ရွှေထီးကုသိုလ်ရှင် စသောသူတို့သည် ဤသို့ ပြုလုပ်ကြခြင်းဖြင့် နိဗ္ဗာန်သို့ မရောက်မီ သံသရာခရီး အကြားတွင် ဘဝကောင်းများ ရဖို့ သုဂတိ လက်မှတ်များ ဖြတ်ထားသကဲ့သို့လည်းကောင်း, နိဗ္ဗာန်ကို သွားဖို့ မဂ်ဖိုလ်လက်မှတ်များ ဖြတ်ထားသကဲ့သို့လည်းကောင်း ဖြစ်တော့သတည်း။

## ဆရာတော်၏ သာဓုသံ ၃ ကြိမ်

ဤသို့ ကျောက်တော်ကြီးဘုရားကို ပြည့်စုံလုံ လောက်အောင် ပြုပြင်ပေးမည့် ဒကာပေါ်သည့် အတွက် အတိုင်းမသိ ဝမ်းမြောက်ကြရ၏၊ သို့သော်လည်း ယင်းကိစ္စပြီးမြောက်အောင် ကမ္မပထပြု၍ ကြောင့်ကြစိုက်ကာ စောင့်ရှောက်စီမံမည့်ပုဂ္ဂိုလ် လိုအပ်နေပြန်သည်၊ အနည်းဆုံး သုံးနှစ်လောက် ဒုက္ခခံပေးရမည် ဖြစ်၏။

ဤဘုရားကြီးမှာ မြို့လယ်ခေါင်က ဘုရားမဟုတ်၊ တောကြီးမျက်မည်းအလယ်တွင် ချောင်ကျ၏၊ လူသူ လေးပါး ကင်းဆိတ်၏၊ ရာသီဥတုဒဏ်ကလည်း ကြမ်းတမ်းလှသည်၊ ကျန်းမာရေးကောင်းကောင်းနှင့် စေတနာအပြည့်အဝ ထားနိုင်သူမှ ဖြစ်ပေမည်ဟု ဆရာတော် တွက်ဆထားဟန် တူ၏၊ ထို့ကြောင့် ခန္ဓာကိုယ်တောင့်တောင့်နှင့် ကျန်းမာရေးကောင်း ကောင်း ပြည့်စုံသော (မဟာဂန္ဓာရုံတိုက် ဆွမ်းစား ကျောင်းဘုန်းကြီး) ဦးအဂ္ဂဝံသအားပင် ဆရာတော် ကြီးက ဆက်လက်၍ တာဝန်ပေးအပ်တော့သည်၊ ဦးအဂ္ဂဝံသလည်း အဖန်ဖန် စဉ်းစားနေမိ၏။

လက်မခံသေးဘဲ တွေတွေကြီး ဆိုင်းငံ့ထားမိ သေးသည်၊ နောက်မှ ကိုယ့်စိတ်ကိုယ်မေး၍ ဆုံးဖြတ် ချက်ချပြီးလျှင် "မှန်ပါဘုရား...စေတနာထားပြီး ဘုရားကြီး လုံးဝပြုပြင် ပြီးစီးသည်အထိ စောင့် ရှောက်ပေးပါမည်ဘုရား"ဟု ကတိပေး လျှောက် ထားလိုက်တော့သည်၊ ထိုအခါ ဆရာတော်ဘုရား ကြီးက "သာဓု-သာဓု-သာဓု"ဟူ၍ ဖြည်းဖြည်းအေး အေး လေးလေးပင်ပင်ကြီး ကောင်းချီးပေးကာ



(ယခု)မဟာနာယကဆရာတော်ဘဒ္ဒန္တအဂ္ဂဝံသ
အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ

အသိအမှတ် ပြုတော်မူလိုက်ပါသတည်း။

ယခုအခါတွင်ကား ပြန်လည်ပြုပြင်မွမ်းမံခဲ့သော တောင်သမန်ကျောက်တော်ကြီးလိုဏ်ဂူစေတီတော် ၏ ပတ်ပတ်လည် အမိုးများ လုံးဝပြီးစီးသွားလေပြီ၊ အချိန်ကာလအားဖြင့် ၅ နှစ်ကျော်ကြာ၍ တန်ဖိုး အားဖြင့် ၆ သိန်းကျော် ကုန်ကျလေသည်။

**မှတ်ချက်။** ။ ဦးအဂ္ဂဝံသသည် မြင်းခြံမြို့နယ် ရန္တာပိုရွာ ဇာတိ ဖြစ်၏၊ ရဟန်းသိက္ခာ ၉ ဝါအရ ၁၃၂၃ ခုနှစ် ဝါဆိုဦးတွင် အမရပူရ မဟာဂန္ဓာရုံသို့ရောက်လာခဲ့သည်၊ ယခုအခါ တိုက်တာ၏ မဟာနာယက ၅ ပါးတွင် ၁ ပါး အပါအဝင် ဖြစ်နေပြီ။

## သီလအပျက်ခံ၍ မအပ်မရာတွေနဲ့ သာသနာမပြုချင်လို့

### ပဥ္စလောဟရုပ်ပွား ပင့်ထားပူဇော်ရ

ဤသို့ပင်လျှင် ဆရာတော်ကား ကျောင်းတိုက် အတွင်းသာမက ကျောင်းတိုက်ပြင်ဘက် အနီးအပါး ပြုပြင်စောင့်ရှောက်စရာများကိုပါ စောင့်ရှောက်ပေး တော်မူခဲ့သည်၊ တစ်ဆက်တည်းပင် မဟာဂန္ဓာရုံ ကျောင်းတိုက်၏ တောင်ဘက်မှာ တောင်မင်းကြီး ဘုရားရှိ၏၊ ယင်းအုတ်တံတိုင်း အပြင်ဘက်မှာ "ကောင်းမှုတော်စေတီပုံ" စေတီတစ်ဆူရှိသည်၊ ယင်း အတွင်းမှ ကြေးဆင်းတုတော်ကြီးတစ်ဆူကိုလည်း လုံခြုံမှုပေးတော်မူရပြန်၏။

ရှေးက ထိုဆင်းတုတော်ကြီးအနီးမှာ ကျောင်း ငယ်တစ်ဆောင် ရှိခဲ့သော်လည်း နောက်ပိုင်းတွင် ကျောင်းဘုန်းကြီး ပျံလွန်တော်မူခဲ့၍ အဆက်ပြတ် သွားခဲ့သည်၊ သို့ဖြစ်၍ ကြေးဆင်းတုတော်ကြီးမှာ လည်း စောင့်ရှောက်မည့်သူ ကင်းမဲ့ကာ စိုးရိမ်ရ သည့် အခြေသို့ ရောက်သွားတော့၏၊ ထို့ကြောင့် အများက လာ၍ ဆရာတော်အား လျှောက်ထားကြ ၏၊

"ဆရာတော်ဘုရား ယခုအခါ ကြေးကို အလိုရှိ၍

ကြေးခေါင်းလောင်း, ကြေးစည်, ဖားစည်, ကြေးဘုရားတို့ကို ခိုးနေကြပါသည်၊ ဤဘုရားကြီးကိုလည်း မ၍ မနိုင်လျှင် လက်ခြေ, ဦးခေါင်းတော်တို့ကို ဖြတ်တောက်ပြီးလျှင် ခိုးယူခံရမှာ စိုးပါသည်၊ စောင့်ရှောက်ထိန်းသိမ်းဖို့ လိုအပ်ပါသည်ဘုရား"ဟု လျှောက်ထားကြသဖြင့် မဟာဂန္ဓာရုံတိုက်အတွင်းသို့ ပင့်၍ စောင့်ရှောက်ပူဇော်ထားရသည်။

ဘုရားကြီးမှာ ရွှေ, ငွေ, ကြေးဖြူ, ကြေးနီ, သံငါးမျိုး စုပေါင်းသွန်းထုထားသဖြင့် "ပဉ္စလောဟ"ဟု ခေါ်ကြပါသတတ်၊ ကျပ်ချိန် နှစ်သိန်းလေးသောင်းရှိ၏ဟု ကမ္ပည်းထိုးထားသည်။

ဤကြေးဆင်းတုတော်ကြီး၏ မူလဒါယကာမှာ ဘကြီးတော်မင်းလက်ထက်က ဘွဲ့ထူးရသော စစ်ဘက်မင်းကြီး ဇေယျာရာဇကျော်ထင်ဟု မှတ်တမ်းတွေ့ရ၏၊ ၁၃၃၈ ခု ပြာသိုလပြည့်ကျော် ၂ ရက်နေ့က မဟာဂန္ဓာရုံကျောင်းတိုက်တွင်းသို့ ဝင့်ရသည်၊ လူမ၍ မနိုင်သဖြင့် အင်ဂျင်နီယာစစ်တပ်မှ ဒုဗိုလ်မှူးကြီးတင်ထွတ်, ဗိုလ်ကြီးရွှေစိမ့်တို့ ခေါင်းဆောင်ပြီး တပ်သားများ အစုံအလင် ကရိန်းစက်ကြီးဖြင့် ပင့်ခဲ့ရ၏။

## ညောင်ပင်ကြီးပမာ အားထားစရာ

ကြေးဆင်းတုတော်ကြီး ပင့်လာခဲ့ပြီးနောက် ကျန်ရစ်သော ထိုပလ္လင်ပေါ်တွင် (ကြေးဆင်းတုကြီးလောက် ကြီးမားသည့်) ကျောက်ဆင်းတုတော်ကြီးတစ်ဆူကို ပင့်တင်ထားခဲ့လေသည်၊ အနီးမှာရှိသော ကျောင်းငယ်ဟောင်းကိုလည်း ပို၍ ပျက်စီးမသွားအောင် မူလအုပ်ချုပ်ရာ တောင်လေးလုံးကျောင်းတိုက်တွင်းသို့ ရွှေ့ပေးခဲ့၏။

တာဝန်ခံမည့် ဒါယကာ မရှိသောအခါ မဟာဂန္ဓာရုံဆရာတော်ကပင် ဒါယကာခံ၍ ဆောက်လုပ်ပေးခဲ့သည်၊ ထို့ပြင် တောင်သမန်ဘက်က ကျောက်တော်ကြီးဘုရားနှင့် မနီးမဝေးတွင် "မေဃဝတီကျောင်းတိုက်"ဟူ၍ အုတ်တံတိုင်းကြီးများ ပတ်လျက် ရှေးဟောင်းကျောင်းတိုက်ကြီးတစ်တိုက် ရှိနေခဲ့၏။

ယခုအခါ ပျက်စီးယိုယွင်းနေပြီ၊ မိုးလုံလေလုံ အဆောက်အအုံတစ်ခုမျှ မရှိတော့၊ စောင့်ရှောက်မည့် ဘုန်းကြီးကလည်း တစ်ပါးတလေမျှသာ အနိုင်နိုင်၊ ယင်းကိစ္စကိုလည်း ဆရာတော်ကပင် တာဝန်ယူ၍ ကျောင်းဟောင်းများမှ ရသမျှ သစ်သားနှင့် နောက်ထပ်ဖြည့်စွက်ကာ သင့်တော်အောင် ကျောင်းတစ်ဆောင် ဆောက်လုပ်ပေးရပြန်လေသည်။

ဤသို့လျှင် ပတ်ဝန်းကျင်ကလည်း ယခုအခါတွင် ဆရာတော့်အား ညောင်ပင်ကြီးပမာအလား အားထားကြကုန်၏၊ အရိပ်ခိုလာကြ၏၊ ဆရာတော်ကလည်း လက်လှမ်းမီရာဟူသမျှကို အရိပ်မိုးကာ စောင့်ရှောက်၍ ပေးရလေတော့သည်။

## သီလအပျက်ခံ၍ သာသနာမပြုလို

ဆရာတော်မှာ သက်တော်ကြီးလေ လုပ်ငန်းတွေက အောင်မြင်လေ၊ အရာထင်လေ ဖြစ်လာ၏၊ ဆရာတော့်ကို ကူညီမည့်သူတွေ, ဒါယကာ ဒါယိကာမတွေ ဘဝသံသရာက ဆရာတော်နှင့် ပါရမီဖြည့်ဖက်တွေ, အားပေးမည့်သူတွေ ပေါ်လာကြသည်၊ သို့သော် အနည်းငယ် နောက်ကျသွားပြီဟု ဆိုချင်၏၊ ဆရာတော်၏ အကျိုးပေးသည် နှောင်းခဲ့လေပြီတည်း။

ဤအနေအထားမျိုး ယခုထက် ၁၀ နှစ်လောက်စော၍ အကျိုးပေးပါလျှင် မည်မျှလောက် ကောင်းချိမ့်မည်နည်း။ ယခုကား ဆောင်ရွက်ရန်အချိန် နည်းပါးသွားချေပြီ။

ဤသို့အချိန်နောက်ကျခြင်းမှာလည်း ဆရာတော်က သာသနာပြုရာတွင် အပ်အပ်စပ်စပ်ဖြင့် ဆောင်ရွက်လိုသောကြောင့် ဖြစ်၏၊ "မိမိ၏ သီလကို အညှိုးနွမ်းခံ အပျက်ခံ၍ သာသနာပြုသည်"ဆိုရာမှာ သူတော်ကောင်းတို့၏ အစဉ်အလာ မဟုတ်သောကြောင့် ရှောင်ကြဉ်ခဲ့၏၊ မအပ်မရာတို့ဖြင့် သာသနာပြုသည်ကိုလည်း ဘုရားက ကျေနပ်မည် မဟုတ်ချေ။

ထို့ကြောင့် သူ့အလိုလို ပေါ်ပေါက်လာသော အချိန်အခါကို စောင့်ခဲ့ရ၍ ယခုကဲ့သို့ နောက်ကျသွားရခြင်း ဖြစ်ပေသည်။

## ဘုရားသာသနာ မြတ်လေးပန်းပမာ

ဆရာတော်က သာသနာတော်နှင့် ပတ်သက်၍ မကြာခဏ ဤသို့ မိန့်တတ်ပါ၏၊ "မြတ်လေးပန်းဟာ လူတွေနှင့် တွေ့ရ ဆက်ဆံရလျှင် သူဟာ ခေါင်းပေါ်က အမြဲနေရတာပဲ၊ အဲ-လူတွေနှင့် မတွေ့ရလျှင်လဲ တောထဲမှာပဲ သစ်ပင်အောက်မှာ အခြောက်ခံတာပဲ။

ဘုန်းကြီးတို့ မြတ်စွာဘုရားရဲ့ သာသနာတော်ကလဲ ဒီအတိုင်းပဲ၊ ထိုက်တန်တဲ့ လူတွေနှင့် တွေ့ရရင် သာသနာတော်ဟာ ခေါင်းပေါ်က အမြဲနေရမှာပဲ၊ ခေါင်းပေါ်က နေထိုက်တဲ့ သာသနာပဲ၊ မတွေ့ရင်လဲ ခြောက်သွေ့ပစေပေါ့။

အောက်ကျ နောက်ကျ ခံပြီး အပ်-မအပ်ကို မစဉ်းစားဘဲ, ဘုရားအလိုတော်ကိုလဲ မကြည့်ဘဲနှင့် လုပ်နေကြတာကတော့ သဘာဝ မကျဘူး"ဟူ၍ ဖြစ်၏။

## ဇရာနှင့် ဗျာဓိက စကားပြောရှိလာ

ယခုအခါကား တပို့တွဲလ ကုန်ပြီ ဖြစ်၍ သက်တော် ၇၇ နှစ်တင်းတင်း ပြည့်လေပြီ၊ သက်ရွယ်တော် ရင့်ညောင်းလာသည်နှင့်အမျှ ဇရာက စကားပြောလာ၏၊ ဗျာဓိကလည်း တတွတ်တွတ် အရေးဆိုလာသည်။

ဆရာတော်၏ ကျန်းမာရေးကို မကြာ မကြာ စစ်ဆေးပေးသော တပည့်မ ဒေါက်တာညိုညိုက လွှန်ခဲ့သော တန်ဆောင်မုန်းလကပင် စိုးရိမ် ပူပန်ဟန် ရှိ၏။

ထို့ကြောင့် သမားတော်ဘွဲ့ရ ဆရာဝန်ကြီး ဒေါက်တာ ဦးထွန်းသင်အား "ဆရာတော်၏ ကျန်းမာရေးကို စမ်းသပ်ပေးပါရန်" တောင်းပန်၍ နှလုံးစမ်းသပ်သည့် စက်ပါ အပြည့်အစုံ ကျောင်းသို့ ယူလာကြ၏၊ ကျကျနန အေးအေးဆေးဆေး စမ်းသပ်ပေးကြသည်၊ "ဘာရောဂါမျှ ကြီးကြီးမားမား မရှိပါ"ဟု ဆရာဝန်များထံမှ အဖြေရသော်လည်း "ပို၍ သေချာအောင်ဓာတ်မှန်ရိုက်ပါဦး"ဆိုသဖြင့် မန္တလေး ဆေးရုံကြီးသို့ သွား၍ ဓာတ်မှန်ရိုက်ခဲ့ရသည်။

ဓာတ်မှန်ရိုက်ပြီးသော အခါတွင်လည်း "စိုးရိမ်ဖွယ် မတွေ့ရပါ၊ နည်းနည်းပါးပါးမျှသာ ကျန်းမာရေး ချွတ်ယွင်းသည်ကို တွေ့ရပါ၏"ဆိုပြီး ၇ ရက်စာ စားဖို့ ဆေး ၃ မျိုး ပေးလိုက်သည်၊ ဤနည်းအားဖြင့် ခန္ဓာကိုယ်ကို ပြုပြင်နေရ၏၊ စောင့်ရှောက်နေရ၏၊



**ဒေါက်တာညိုညို**

"အသက် ဉာဏ်စောင့်"ဆိုသည် မဟုတ်ပါလော၊ သို့ရာတွင် ဆရာတော်ကမူကား ပြောနေကျအတိုင်း "အလုပ်လုပ်နိုင်တဲ့ အင်အား ရှိသလောက်သာ လူ့ဘဝမှာ နေချင်ပါတယ်၊ အလုပ် မလုပ်နိုင်ဘဲနဲ့တော့ မနေချင်ပါဘူး၊ ဘဝအသစ်မှာ လုပ်စရာအလုပ်တွေ အများကြီး ရှိဦးမှာပါ"ဟူ၍ ပြောနေတတ်တော့သည်။

# ဆရာတော်၏ သဘောထားနှင့် ဆောင်ရွက်ချက်များ

## သဘောထားနှင့် တသားတည်းဖြစ်၏

ယခု ဤအပိုင်းထိအောင် သာသနာတော်နှင့် နိုင်ငံတော်အပေါ် ဆရာတော် အရှင်ဇနကာဘိဝံသ၏ ဆန္ဒ, ဆရာတော်၏ သဘောထား, ဆရာတော်၏ စေတနာ, ဆရာတော်၏ မေတ္တာ, ဆရာတော်၏ လုံ့လဝီရိယအားတို့ဖြင့် ကြိုးစားဆောင်ရွက်ခဲ့သော လုပ်ငန်းတို့ကို စွမ်းနိုင်သမျှ ဖော်၍ တင်ပြခဲ့ပါ သည်။

ဤတင်ပြချက်တို့မှာ ဆရာတော်၏ ရည်ရွယ်ချက် ဆရာတော်၏ ဆောင်ရွက်ချက်တို့နှင့် သွေဖီ၍ နေခြင်း မရှိပါ၊ အပိုလည်း မပါပါ၊ ဆရာတော် ဆောင်ရွက်ခဲ့သမျှတို့ကိုသာ တင်ပြနေခြင်း ဖြစ်ပါ၏။

ယခုအခါတွင် မိမိတို့ တင်ပြခဲ့သော အချက်များသည် ဆရာတော်၏ စေတနာ, ဆရာတော်၏ သဘောထား, ဆရာတော်၏ ဆောင်ရွက်ချက်များနှင့် တသားတည်းဖြစ်ကြောင်းကို ဆရာတော်ကိုယ်တိုင် ရေးသားထားသော "ဘုရားဥပဒေတော်ကြီး" စာအုပ်နိဂုံးနှင့်ယှဉ်၍ လေ့လာနိုင်ရန် ထိုနိဂုံးကို ယူ၍ ဤနေရာတွင် တင်ပြအပ်ပါသည်။

# ရည်ရွယ်ချက်များ

## ဝိနည်းသာသနာထွန်းစေချင်လို့

ဤ"ဘုရားဥပဒေတော်ကြီး"စာအုပ်ကို စီစဉ်ရာ၌ ရည်ရွယ်ချက်အတော်များများ ရှိပါသည်၊ ထိုရည်ရွယ်ချက်များစွာတို့တွင်...

၁။ ဝိနည်းပါဠိတော်ရင်းအတိုင်း နားလည်လိုကြသော, နားလည်သလောက်လည်း ကောင်းမွန်စွာ နေထိုင်လိုကြသော ရဟန်းသာမဏေတို့အား ဝိနည်းဥပဒေကို လွယ်ကူစွာ နားလည်စေလိုခြင်း၊

၂။ သာသနာတော်ကို ပစ္စည်းလေးပါးဖြင့် ထောက်ပံ့နေကြသော ဒါယကာ ဒါယိကာမတို့အား ဝိနည်းတရားတော်အမှန်ကို လွယ်ကူစွာ နားလည်စေလို၍ ထိုနားလည်သည့်အတိုင်းလည်း သာသနာတော် ပြုစုတတ်ကြစေလိုခြင်း၊

၃။ ဤနည်းအားဖြင့် လူ့ဘက် ရှင့်ဘက် နှစ်ဖက်လုံးမှာပင် ဝိနည်းသာသနာ ထွန်းကားလာ၍ သာသနာ့ဝန်ထမ်း ရဟန်းသာမဏေများကို နိုင်ငံသူ နိုင်ငံသားတို့က ယခုထက်တိုး၍ လေးစားလာလိမ့်မည်ဟု မျှော်လင့်ခြင်း၊

၄။ ထိုသို့ လူဝတ်ကြောင်တို့က လေးစားလာသည့်အားလျော်စွာ သာသနာ့ဝင်အရှင်များမှာ လည်း မေတ္တာ ကရုဏာ မုဒိတာ အခြေခံပါသော ဩဝါဒကို ပေးခြင်း, ကလေးသူငယ်တို့အား အပြစ် မရှိသော (သင်ပြကောင်းသော) သိပ္ပံ ဝိဇ္ဇာကို သင်ပြ ခြင်းတို့ဖြင့် သာသနာ့ဝင်အရှင်များက လောကတ္ထ စရိယာ (လောကကောင်းကျိုးကို) ကျင့်ကြခြင်း၊

၅။ ထိုသို့ ကျင့်ကြသဖြင့် "ကျွန်းကို ကိုင်းမှီ-ကိုင်း ကျွန်းမှီ" ပမည်မယွင်း အချင်းချင်း အားထားလျက် တိုးတက်လာသော ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ ကမ္ဘာပေါ်တွင် ကြည်လင်သော လမင်းကဲ့သို့ ထင်ရှားနေပုံကို မျှော်မိခြင်း ဤသို့ သော အကျိုးကို မျှော်ကိုးရည်ရွယ်ကာ ဤဥပဒေတော်ကို စီစဉ်ရခြင်း ဖြစ်ပါသည်။

## မလွယ်ကူမှန်း သိပါလျက်

၆။ ထိုကဲ့သို့ မျှော်လင့်ချက်ကြီးစွာဖြင့် "အနာဂတ်သာသနာရေး" "ရုပ်ပုံရှင်ကျင့်ဝတ်"တို့နှင့် ဤ "ဘုရားဥပဒေတော်ကြီး"ကို စီစဉ်ရပါသော်လည်း ရည်ရွယ်ချက် အကျိုးများ မျှော်ကိုးသလောက် အထမြောက်ဖို့ မလွယ်ကူကြောင်းကိုလည်း ကိုယ်တိုင်ကြိုးစားချက်များက လက်တွေ့ပြလျက် ရှိပါသည်၊ ထင်ရှားစေပါဦးမည်။

၇။ မိမိသည် သာသနာ့ဝင်ဖြစ်သည့်အားလျော်စွာ လောကီ လောကုတ္တရာ နှစ်ဖက်လုံးမှာပင် အထက်တန်းအရောက်ဆုံးဖြစ်တော်မူသော မြတ်စွာဘုရား၏ ရှေးခေတ်သာသနာတော်ကို မှန်းမျှော် ကြည်ညိုပြီး လျှင် ယခုခေတ်သာသနာ့ဝန်ထမ်း ရဟန်းသံဃာများကိုလည်း ကိုးကွယ် ဆည်းကပ် သူ လူဝတ်ကြောင်တို့ လေးစားလောက်သော ကျက်သရေကို အလွန်ပင်

ဆောင်စေလိုပါသည်။

ထိုသို့ ကျက်သရေဆောင် ဖြစ်စေလိုသည့်အား လျော်စွာ မိမိစောင့်ရှောက်ရာ ကျောင်းတိုက်နှင့် သံဃာများကို အထူးစနစ်ကျအောင် ကြိုးစားခဲ့သည်မှာ အတော်ပင်ကြာခဲ့ပါပြီ။

ကြိုးစားပုံကား...

## သာသနာသန့်ရှင်းရေး

၈။ (က) မိမိနေရာ မဟာဂန္ဓာရုံကျောင်းတိုက်သည် အမရပူရမြို့နှင့် အလှမ်းမဝေးသော်လည်း နီးစပ်လျက်ကား မနေပါ။ "ဂမနာဂမနသမ္ပန္န"ဟု ဆိုရလောက်အောင် သွားလို့ ပြန်လို့ သင့်တော်ရုံသာ ရှိပါသည်။

(ခ) ရှေးက မဟာဂန္ဓာရုံဆရာတော်ကြီး စသော ဆရာတော်ကြီး အဆက်ဆက်တို့ နှစ်သက်မွေ့လျော်စွာ သီတင်းသုံးတော်မူခဲ့ရာ ကမ္မဋ္ဌာန်းကျောင်းတိုက်ဖြစ်ခဲ့၍ နဂိုမူလ သဘာဝအတိုင်းလည်း တိတ်ဆိတ်လျက် ရှိပါသည်။

(ဂ) ကျောင်းတိုက်၏ အတော် ဝေးသော အနောက်စွန်ကျမှသာ လူနေအိမ်ခြေကို မြင်ရ၍ မြောက်ဘက်၌ ယာခင်းများနှင့် ကျော်အောင်စံထားကျောင်းတိုက် ခြားလျက်ရှိသည့်အပြင် တောင်ဘက်တစ်ခွင်လုံးမှာ ဘုရားစေတီများစွာနှင့်တောင်လေးလုံးကျောင်းတိုက်သာ ရှိပါတော့သည်။

(ဃ) အရှေ့ဘက်၌ကား ရာဇဝင် ထင်ရှားသော တောင်သမန်အင်းကြီးသည် နယုန်လလောက်မှစ၍ တန်ဆောင်မုန်း နတ်တော်လောက်အထိ ကျယ်ပြန့်သော ရေပြင်ကြီးဖြင့်လည်းကောင်း, ထို့နောက် နွေဥတုအရောက်မှာ စိုက်ပျိုးကြသော မုယင်းစပါးခင်း ယာခင်းများဖြင့်လည်းကောင်း ရှုမျှော်ခင်း သာယာစွာနှင့် လွန်စွာ သန့်ရှင်းသော လေကောင်းကို ကျောင်းတိုက်အတွင်းသို့ ဆောင်ပို့လျက် ရှိပါသည်။

(င) ထိုသို့ သဘာဝအားဖြင့် သာယာနေသော ကျောင်းတိုက်ဝယ် ကြီးကြီးငယ်ငယ် ကျောင်းများနှင့် တကွ ကျောင်းတိုက်ဝင်းကိုလည်း သန့်ရှင်းနိုင်သမျှ သန့်ရှင်းအောင် နေ့စဉ်လည်းကောင်း, အထူးအားဖြင့် ဥပုသ်မတိုင်မီ အဖိတ်နေ့များ၌လည်းကောင်း ဇရပ်ဖြန်း၍ အမှိုက်လှည်းစေခြင်း, ပိုးမျှင်စသည်ကို သုတ်သင်စေခြင်း, အဝတ်စသည်ကို နေလှမ်းခြင်း, ဖွပ်လျှော်ခြင်း စသည်ဖြင့် ဘုရားပညတ်တော်မူအပ်သော သေနာသနဝတ် (ကျောင်းနှင့်စပ်သော ကျင့်ဝတ်)များကို ပြုလုပ်စေပါသည်။

(စ) ဤကား သက်မဲ့ပစ္စည်းများကို ပြုပြင်ရေးဖြစ်၏၊ ဤသက်မဲ့ပြုပြင်ရေးသည် ပြုပြင်ထားတိုင်း မပျက်စီးနိုင်သဖြင့်လည်းကောင်း, တာဝန်ဝတ္တရားကို ဆောင်ရွက်နေကြသဖြင့်လည်းကောင်း အထိုက်အလျောက် အထမြောက်သည်ဟု ဆိုထိုက်ပါပေ၏။

## သံဃာများကို ပြုပြင်ရေး

၉။ (က) သက်မဲ့ပစ္စည်းကို ပြုပြင်သလို သက်ရှိပုဂ္ဂိုလ်များကိုလည်း "ကြိုးစားလျှင် ဘုရားတောင် ဖြစ်နိုင်သေးတာပဲ"ဟူသော ဖွဲဖြင့် စွဲစွဲမြဲမြဲ ကြိုးစားခဲ့ပါသည်၊ နေ့စဉ် နံနက် အရုဏ်တက်လျှင် ပဲပြုတ် ချဉ်ပေါင်ဟင်းတို့လို ဟင်းများဖြင့် ဆွမ်းစားကြပြီးနောက် စာမမြင်သေးခင် အချိန်မှာပင် တုံးခေါက်၍ သံဃာအားလုံးစုပြီးကာ ဘုရားပါဠိတော်ကို (ဣမဘိက္ခဝေ တထာဂတော လောကေ ဥပ္ပဇ္ဇတိ စသော သာသနာတော် ဖြစ်ပေါ်ပုံ အစဉ်ပြ ပါဠိတော်မျိုးနှင့် ဓမ္မစကြာ ပါဠိတော်မျိုးကို) အဖြတ်အတောက် ကောင်းမွန် သေသပ်စွာနှင့် အနက်ကိုပါ ညီညီ ညာညာ ရွတ်စေပါသည်။

(ခ) ထိုနေရာမှာပင် စိတ်နေ စိတ်ထားကောင်းအောင်, သဒ္ဓါတရား တိုးပွားအောင် တရားတော်နှင့် သက်ဆိုင်လာသော ဩဝါဒများကို ပြောပြ၍ တချို့ငယ်ရွယ်သူများကို ပြန်လွှတ်ပြီးလျှင် ပါဠိတော်-အဋ္ဌကထာစာ တစ်ဝါကို ဆွမ်းခံမသွားမီ အချိန်ရသမျှ ပို့ချပါသည်။

(ဂ) ထို့နောက် နေ့ဆွမ်းအတွက် အများပင် ဆွမ်းခံ ကြရပါသည်၊ ("ဆွမ်းမခံဘဲ ဆွမ်းစားနိုင်သည်"ဟု ဂုဏ်မယူစေဘဲ ဘုရားရှင်နှင့် သာဝကအဆက်ဆက်တို့ ဆွမ်းခံတော်မူကြသည်ကိုသာ အားကျစေလျက်

"ငါတို့တော့ အမြဲဆွမ်းခံစားခဲ့တာပဲ"ဟူသော ဂုဏ်ကို ကြီးရင့်သောအခါ ယူကြဖို့ တိုက်တွန်း၍

ကျန်းမာလည်း ကျန်းမာ အခြားအကြောင်းလည်း မရှိပါဘဲလျက် ဆွမ်းမခံသူများကို အထင်မကြီးကြဖို့ရန် အမြဲ ညွှန်ပြပါသည်။)

(ဃ) အလုပ်ဝတ္တရား ရွက်ဆောင်ချိန်မှတစ်ပါး ကျောင်းတိုက်အတွင်း၌ပင် ဣန္ဒြေရရ ဝတ်ဖို့၊ မြို့ရွာအတွင်းသို့ သွားသောအခါ ဆွမ်းခံချိန် မဟုတ်သော်လည်း အမြဲ သင်္ကန်းရုံ၍ သွားဖို့ရန်နှင့် ရထားသဘော် စသည်တို့၌ ဣန္ဒြေရရ သွားလာကြဖို့ရန် ညွှန်ပြပါသည်။

(င) သင်္ကန်းအသွေးအရောင်ကိုလည်း ပိန္နဲသွေး အရင့်ရောင်နှင့် ညောင်ခေါက်သွေး ရှားသွေး ခပ်ပျော့ပျော့ အရောင်ကိုသာ အားလုံးပင် ဝတ်ရုံစေပါသည်။

(စ) အကြောင်းထူး မရှိလျှင်လည်းကောင်း၊ အရေးကြီးတဲ့ ကိစ္စလည်း မရှိလျှင်လည်းကောင်း မြင်းရထား၊ လှည်း၊ လန်ချားတို့ကို မစီးစေရပါ။

(ဆ) ပွဲကြည့်မှုနှင့် ပိုက်ဆံကိုင်မှုများမှာ ချက်ချင်းတိုက်က ထွက်သွားရမည့် ပြစ်မှုများဖြစ်၍ ပိုက်ဆံများကိုလည်း ကပ္ပိယထံ အပ်နှံခြင်းမှတစ်ပါး မိမိသေတ္တာအတွင်း၌ မထားဖို့ရန် အမြဲ သတိပေးကာ တစ်ခါတစ်ရံ သေတ္တာကိုပင် အားလုံးဖွင့်၍ ရှာစေပါသည်။

## စာသင်နည်းနှင့် စာမေးပွဲများ

၁၀။ (က) မိမိကျောင်းတိုက်၌ သံဃာတော်များကို အဝတ်အစား အနေအထိုင် အသွားအလာကိစ္စတို့၌သာ ကျက်သရေရှိအောင် ပြုပြင်သည် မဟုတ်သေးပါ။ စာသင်နည်းကိုလည်း စာမေးပွဲအောင်မှုကို ပဓာနမပြုဘဲ ကျမ်းရင်းစာသား နိုင်နင်းမှုကိုသာ ပဓာနပြု၍ သင်ပြပါသည်။

(ခ) သို့ရာတွင် စာမေးပွဲမအောင်ပြန်လျှင် ယခုနှင့်နောင်ခေတ်ဝယ် အလုပ်တွင်ကျယ်စွာ လုပ်နိုင်လိမ့်မည် မထင်သောကြောင့် စာမေးပွဲကိုလည်း အချိန်မီသူတိုင်း လက်လှမ်းမီရာ တစ်နိုင်ငံလုံး အသိအမှတ်ပြုသော စာမေးပွဲများကို ဝင်ဖို့ရန် တိုက်တွန်းပါသည်။ (သို့သော် ကျမ်းရင်းစာသားကို နိုင်နင်းမှသာ ဝင်ခွင့်ပြုသောကြောင့် ဤကျောင်းတိုက်မှ စာမေးပွဲဝင်ရာ၌ အမြဲအချိန်နှောင်းလျက်ရှိတတ်ပါသည်။)

## ပြုပြင်သမျှ အပျက်တွေ့ရခြင်း

၁၁။ (က) ထိုမျှလောက် စိတ်ရော ကိုယ်ပါ ပြုပြင်ထားသည့်အတွက် ကျောင်းတိုက်၏ သာယာမှုနှင့် သံဃာတော်များ၏ ငြိမ်သက်စွာ နေထိုင်မှုတို့က ရောက်လာသူတို့၏ စိတ်ကို ယိုဖိတ်ကြည်နူးစေပါသော်လည်း တစ်ခါတစ်ခါ တိုက်တာမှ ထုတ်ပစ်ရလောက်အောင် အပြစ်ကျူးလွန်သူများကို တွေ့နေရ၍၊ ဖမ်း၍ မမိနိုင်အောင် သာမန်ကျူးလွန်သူများတို့လည်း ရှိနေသေးသောကြောင့် အားရ ကျေနပ်ခြင်းကား မရှိသေးပါ။

(ခ) ထိုတွေ့ရသောအပြစ်တို့မှာလည်း များသောအားဖြင့် မူလမိဘနှင့် ဆရာရင်းတို့က သွန်သင်ဆုံးမမှု မပြုခဲ့ကြခြင်း၊ ပတ်ဝန်းကျင် အဖော်အပေါင်းတို့က မကောင်းခြင်းနှင့် သူ့နဂိုစိတ်ရင်းကိုက ညံ့ဖျင်းခဲ့ခြင်းတို့ကြောင့် ဖြစ်ပါသည်။

## ကိုယ်စီကိုယ်င အားလုံးပြင်ကြမှ

(ဂ) ထို့ကြောင့် ဤသာသနာတော်ကို နိုင်ငံတော်၏ အမြဲကိုးကွယ်ရာ သာသနာအဖြစ်မှ မရွေ့လျောစေလိုလျှင် တစ်တိုက် တစ်တာ ပြုပြင်ရုံဖြင့် ကိစ္စမပြီးပါ။

မြို့ရော နယ်ပါ ကျောင်းတိုက်ကြီးငယ် အသွယ်သွယ် ပြုပြင်ကြ၍ သာသနာဝင်ချိန်ကာလကပင် စည်းစနစ်ထား၍ ဝင်ခွင့်ပြုမှသာ လူမျိုးနှင့် သာသနာ နှစ်ဖြာလုံး၏ ကျက်သရေကို ဆောင်နိုင်သော သာသနာတော် ဖြစ်နိုင်ဖွယ်ရာ ရှိကြောင်းကို တိုင်းသူ ပြည်သား ရှင်လူအများတို့အား ထပ်လောင်း၍ ညွှန်ပြပါသည်။

ဤသည်ကား သာသနာတော်နှင့် နိုင်ငံအပေါ် ဆရာတော်၏ စေတနာ သဘောထားနှင့် ဆရာတော်၏ ဆောင်ရွက်ချက်များကို ဆရာတော်ကိုယ်တိုင် ဝန်ခံထားချက်တို့သာတည်း။

# နောက်ဆုံးဆယ်လပိုင်းအခြေအနေ

## နောက်ဆုံးဆယ်လ မြတ်ဗုဒ္ဓအခြေအနေ

ယခုအခါ ၁၃၃၈ ခု တပေါင်းလဆန်းပြီဖြစ်၍ ဆရာတော်၏ သက်တော်မှာ ၇၈ နှစ်ထဲသို့ ဝင်လာခဲ့ပြီ၊ မြတ်စွာဘုရား၏ ပရိနိဗ္ဗာန်မစံမီ နောက်ဆုံးဆယ်လပိုင်း အခြေအနေတွေကို ဖော်ပြရေးသားထားသော "နောက်ဆုံးဆယ်လ မြတ်ဗုဒ္ဓ"စာအုပ်ငယ်လည်း ယခုတပေါင်းလတွင် ထွက်ပေါ်လာခဲ့၏၊ ဤစာအုပ်ငယ်ဖြစ်အောင် ရေးသားခဲ့သည်မှာကား လွန်ခဲ့သော တန်ဆောင်မုန်းလကပင် ဖြစ်သည်။

ရေးသားရခြင်း အကြောင်းရင်းမှာ မဟာဂန္ဓာရုံကျောင်း ဒါယကာ ကျောင်းအမများ ဖြစ်ကြသည့် မန္တလေးမှ ဒါယကာ ဦးထွန်းလှိုင်+ဒါယိကာမ ဒေါ်သိန်း တို့က လျှောက်ထားခဲ့၍ ဖြစ်၏၊ "ယခုနှစ်နွေတွင် သူတို့၏ မြေးငယ် မြေးမငယ်တို့၏ ရှင်ပြုနားသမင်္ဂလာဖိတ်စာဝေသောအခါ (စာအုပ်ကလေးတစ်ခုခု)ပေါ်၌ ဖိတ်စာရိုက်၍ ဝေလိုပါသည်၊ လူအများဖတ်၍ အကျိုးများမည့် စာအုပ်ငယ်လေးတစ်အုပ်ကို ပြုစု ချီးမြှင့်ပေးပါဘုရား"ဟု လျှောက်ထားချက်အရ ရေးခဲ့ရပေသည်။

ဤအကြောင်းအရာနှင့်ပတ်သက်၍ ဆရာတော်က ဤသို့ ပြန်လည် အမိန့်ရှိဖူး၏။

"ရေးဖို့အကြောင်းအရာကို စဉ်းစားကြည့်မိတယ်၊ ဒီအချိန်မှာ သုတ်မဟာဝဂ္ဂပါဠိတော်နှင့် အဋ္ဌကထာကို ချပို့နေဆဲလဲ ဖြစ်တယ်၊ မဟာပရိနိဗ္ဗာနသုတ်တွင် ပရိနိဗ္ဗာန် စံတော်မမူမီ ဆယ်လခန့် အခန်းသို့လဲ ရောက်နေတယ်, ပရိနိဗ္ဗာန်စံတော်မူခါနီးနေသော ဗုဒ္ဓမြတ်စွာသည် အားတော်နည်းပါးနေပါလျက် ထိုထိုအကြောင်းအရာတို့ကို မလစ်လပ်ရအောင် မိန့်မြွက်တော်မူနေရတယ်၊ ရောက်လေရာဌာနတိုင်းမှာ "အပ္ပမာဒတရား" လက်ကိုင်ထားဖို့ ဟောကြားနေရတယ်၊ ဤအချက်တို့ကို ရေးပြရလျှင် အများအတွက် ဗုဒ္ဓါနုဿတိဘာဝနာပင် ဖြစ်စရာရှိ၏ဟု သဘောပေါက်လာတယ်၊ ဒါကြောင့် "နောက်ဆုံးဆယ်လ မြတ်ဗုဒ္ဓ"ဟူသော နာမည်ဖြင့် ရေးသားခဲ့တယ်"ဟူ၍ မိန့်တော်မူဖူးသည်။

## ဝေဠုဝရွာငယ်၌ ဝါကပ်တော်မူခြင်း

မြတ်စွာဘုရားသည် ပရိနိဗ္ဗာန်စံတော်မူမည့်နှစ် နောက်ဆုံးဝါအတွက် ဝေသာလီမြို့ကြီးအနီးက ဝေဠုဝရွာကလေးမှာ ဝါကပ်တော်မူ၏၊ ထိုရွာကလေးမှာ အိမ်ခြေနည်းလှသဖြင့် နောက်က ပါလာသော သံဃာများ ဆွမ်းဘောဇဉ်ကိစ္စ လုံလောက်မှု မရနိုင်၊ နေထိုင်ဖို့ အဆောက်အအုံလည်း မမျှတ။

သို့ဖြစ်၍ မြတ်စွာဘုရားက "ဝေသာလီမြို့၏ ဝန်းကျင်တစ်ခို မိမိတို့ သိရာကျွမ်းရာ သီတင်းသုံးဖော်များရှိရာ အရပ်သို့ သွား၍ ဝါကပ်ချေကြ"ဟု အများသံဃာတို့အား မိန့်ကြားတော်မူရ၏၊ ထိုရွာကလေး၌ မြတ်စွာဘုရားနှင့် အလုပ်အကျွေးညီတော် အာနန္ဒာ နှစ်ပါးမျှသာ ဝါကပ်တော်မူကြသည်၊ အဘယ်ကို မြော်မြင်တော်မူ၍ပေနည်း။

ဤဝါသည် နောက်ဆုံးဝါဖြစ်သောကြောင့် ဝါဆိုလပြည့်နေ့မှ ကဆုန်လပြည့်နေ့တိုင်အောင် ရေတွက်လျှင် ဆယ်လ ဖြစ်၏။

"ဤနောက်ပိုင်းကျသော ဆယ်လတွင်းမှ အဖြစ်အပျက်ကလေးများကို ရေးပြမည်"ဟု ဆရာတော်က ဆိုသည်၊ သို့ရာတွင် အခြေခံရအောင် ရှေ့နားက အကြောင်းအရာကလေးတို့ကိုပါ ဆွဲယူ ရေးသားထား၏။

ဝါမဆိုခင် နောက်ပါသံဃာများနှင့်တကွ ဒေသစာရီ လှည့်လည်တော်မူခဲ့ရာ ပါဋလိပုတ်၏ တစ်ဖက်ကမ်း ကောဋိရွာသို့ ရောက်ခဲ့ကြ၏။

ထိုရွာ၌ ရဟန်းတို့အား မြတ်စွာဘုရားက သစ္စာလေးပါးတရား ဟောတော်မူပုံ, ထို့နောက် နာတိကာရွာသို့ ဆက်လက် ကူးကြပုံ, ထိုရွာသို့ ရောက်သောအခါတွင် အရှင်အာနန္ဒာက မိမိနှင့် ရှေးတုန်းက ရင်းနှီးကျွမ်းဝင်ခဲ့ဖူးသော ဒါယကာဒါယိကာမများ, ဘိက္ခု ဘိက္ခုနီများ ရှိ-မရှိ မေးရာ အားလုံး ကွယ်လွန်ကုန်ကြပြီဟု အဖြေရသဖြင့် "ဒိန်း"ခနဲ ချောက်ချားသွားရတော့သည်။

သို့နှင့် အရှင်အာနန္ဒာက စိတ်တဲတွင် မသက်မသာရှိလှသဖြင့် သူတို့၏ရောက်ရာဘဝ, ရောက်ရာဂတိတို့ကို မြတ်စွာဘုရားအား လျှောက်ထားမေးမြန်းကြည့်မိ၏၊ တစ်ဦးချင်း၏ ဂတိကို အမိန့်ရှိ အဖြေပေးတော်မူသည်၊ ထို့နောက် မြတ်စွာဘုရားက လူတိုင်း လူတိုင်း ကိုယ့်ဘဝကို ကြည့်ရှုတိုင်းတာနိုင်ဖို့ရန် ဓမ္မာဒါသ တရားမှန်တော်ကြီးကို ဟောပြပုံရေးသားထား၏၊ မှတ်သားဖွယ်ကောင်းလှသည်။

## တစ်ကိုယ်လုံးပေါ် တရားမှန်တော်ကြီး

မြတ်စွာဘုရားက အမိန့်ရှိ၏၊ "အာနန္ဒာ...ကွယ်လွန်သွားတဲ့ သူတိုင်း သူတိုင်း၏ ဂတိကို သိလို၍ ငါဘုရားကိုချည်း လာမေးနေလျှင် ဆုံးနိုင်ဖွယ် မရှိချေ၊ ငါဘုရားလည်း ဟော်မဆုံး ပြောမဆုံးနှင့် ပင်ပန်း နွမ်းနယ်ဖို့သာ ဖြစ်တော့မည်၊ သို့ဖြစ်၍ လူတိုင်း လူတိုင်း ကိုယ့်ဘဝကိုယ် ကြည့်နိုင်ဖို့ရာ တစ်ကိုယ်လုံး မြင်နိုင်သည့် တရားမှန်တော်ကြီးကို ဟောပြမည်"ဟု မိန့်တော်မူ၍ အောက်ပါအတိုင်း ဟောပြတော်မူသည်။

၁။ မြတ်စွာဘုရား၏ အရဟံအစရှိသော ဂုဏ်တော် ၉ ပါးကို ဉာဏ်ဖြင့်လည်းသိ, သဒ္ဓါဖြင့်လည်း နှစ်နှစ်ကာကာ ယုံကြည်ခြင်း၊

၂။ တရားတော်၏ သွာက္ခာတတာ စသော ဂုဏ်တော် ၆ ပါးကိုလည်း ထို့အတူပင် ဉာဏ်ဖြင့်လည်းသိ, သဒ္ဓါဖြင့်လည်း နှစ်နှစ်ကာကာ ယုံကြည်ခြင်း၊

၃။ အရိယာသံဃာတော်၏သုပ္ပဋိပန္နတာစသော ဂုဏ်တော် ၉ ပါးကိုလည်း ဉာဏ်ဖြင့် သိရုံမက သဒ္ဓါဖြင့်ပါ ယုံကြည်ခြင်း၊

၄။ ငါးပါးသီလကို မကျိုးမပေါက်အောင် အလွန်စင်ကြယ်စွာ ထိန်းသိမ်းထားသူ ဖြစ်ခြင်း။

ဤအင်္ဂါလေးပါးနှင့် ပြည့်စုံသူသည် "စူဠ သောတာပန် ဖြစ်ပြီ၊ အပါယ်မကျတော့"ဟု ကိုယ့်ကိုကိုယ် ဆုံးဖြတ်နိုင်၏၊ ငါဘုရားကိုပင် မေးဖို့ မလိုပြီဟု ဟောတော်မူထားသည်။

[ဆောင်] ဘုရားကိုယုံ, တရားယုံ, သံဃာတော်မြတ်ယုံ၊
ငါးပါးသီလ လုံ၊
အပါယ်မကျ, စိတ်သာချ, ဒိဋ္ဌ ယုံသာယုံ။

ဤဓမ္မာဒါသတရားတော်ကြီးသည် ကိုယ်လုံးပေါ် မှန်ကြီးပမာ ဖြစ်၏၊ ဤမှန်ကြီးရှေ့တွင် ရပ်၍ ကိုယ့်ဘဝကိုယ် လှ-မလှ ကြည့်နိုင်၏၊ မြင်နိုင်၏၊ ဘယ်အခြေအနေရှိသည်ကို အတတ်သိနိုင်၏၊ ကိုယ့်ဘာသာကိုယ် ခန့်မှန်းနိုင်သည်၊ ကိုယ်လုံးပေါ် မှန်ကြီးထဲကြည့်လျှင် တစ်ကိုယ်လုံးမြင်ရသလို ဤတရားမှန်ကြီးထဲ ကြည့်လျှင်လည်း ကိုယ့်ဘဝကိုယ် ကျကျနန မြင်နိုင်သည် ဟူလို၊ ဤ၌ အပါယ်မကျနိုင်သော ပထမဆုံးအဆင့်မျှသာ ဟောပြထားခြင်း ဖြစ်သည်။

## လူးလဲပြင်းထန် ဗျာဓိဒဏ်

ထို့နောက် နာတိကာရွာမှ ဝေသာလီမြို့သို့ ကြွကြပုံ, ရောက်သောအခါ မြို့ပြင်ဘက်က အမ္ဗပါလီမည်သော ပြည့်တန်ဆာမ၏ သရက်ဥယျာဉ်၌ သီတင်းသုံးကြပုံ, အမ္ဗပါလီ အမျိုးသမီးက နောက်တစ်နေ့ နံနက် ဘုရားအမှူးရှိသော သံဃာတော်များအား မွန်မြတ်သော ဆွမ်းဘောဇဉ် ဆက်ကပ်ပုံ, ဆက်ကပ်ပြီးလျှင် သူ၏ သရက်ဥယျာဉ်ကို လှူဒါန်းပုံဖော်ပြထား၏။

ဘုရားရှင်ကိုယ်တော်မြတ်ကလည်း နောင် အနာဂတ်အတွက် လက်ခံတော်မူ၏၊ ထို့နောက် ထိုဥယျာဉ်၌ ကျွတ်ထိုက်သော သတ္တဝါရှိသလောက် သီတင်းသုံးတော်မူပြီးမှ ဝေဠုဝရွာငယ်သို့ ဝါကပ်တော်မူရန် ရောက်လာပုံကို ရေးသားထားတော်မူ၏။

ဝေဠုဝရွာငယ်ကလေး၌ ဝါကပ်တော်မူစဉ် မြတ်စွာဘုရားမှာ ပရိနိဗ္ဗာန်စံရလောက်အောင် ပြင်းထန်သော သွေးဝမ်းရောဂါ ဖြစ်ပေါ်လာသည်၊ ဤမျှလောက် ပြင်းပြင်းထန်ထန် တစ်ခါမျှ မဖြစ်ဖူး၍ အရှင်အာနန္ဒာ စိုးရိမ်ပူပန်မိသည်။

ရှေးတုန်းက ဖြစ်တတ်သည်မှာ သာမညရောဂါသာ ဖြစ်၏၊ အိပ်ရာထဲ လဲနေလောက်အောင် မဖြစ်ခဲ့ဖူးချေ၊ တစ်ခါတစ်ရံ လေနာထတတ်ခြင်း, အထိုင်များ၍ ခါးတော်နာခြင်း, ခေါင်းတော်ခဲခြင်း, သာမန်ဝမ်းတော်သွားခြင်းမျှလောက်သာ၊ ယခုတစ်ခါလို စိုးရိမ်ဖွယ်မျိုး မဟုတ်ချေ၊ ယခုတစ်ကြိမ်ကား ပြင်းထန်လွန်းလှသည်။

မြတ်စွာဘုရားမှာ သတိသမ္ပဇဉ်ဉာဏ်ဖြင့် ယှဉ်၍ သည်းခံတော်မူရ၏၊ ရောဂါဝေဒနာကို ဝီရိယဖြင့် တွန်းလှန်ကာ အသက်မသေအောင် ပြုစီမံနိုင်သော

ဖလသမာပတ်ကို အထပ်ထပ် ဝင်းစား၍ ရောဂါကို တားခဲ့ရ၏၊ သို့ဖြင့် ရောဂါဝေဒနာ သက်သာလာရသည်။

အရှင်အာနန္ဒာကား သူ၏ နောင်တော်ကြီးကို အစဉ်အမြဲ အရိပ်တကြည့်ကြည့်နှင့် ဖူး၍ မဝသူဖြစ်၏၊ အားရပါးရ ပြုစုခွင့်ရသော်လည်း တင်းမတိမ်နိုင်သော အလုပ်အကျွေးလည်း ဖြစ်သည်။

* သာဝတ္ထိ ပုဗ္ဗာရုံကျောင်း၌ သီတင်းသုံးတော်မူစဉ်က ဆောင်းကာလတစ်ခုသော ညနေခင်းတွင် ဖြစ်၏၊ ရာသီဥတုက အေးစိမ့်စိမ့်ဖြစ်နေ၍ နေရောင်ခြည် အနည်းငယ်ကို ရတော်မူလိုသည်၊ သို့ဖြစ်၍ မြတ်စွာဘုရားက နေပူဆာလှုံရန် အပေါ်ကေသီကို ခေတ္တခွာ၍ ချလိုက်ရာ အရှင်အာနန္ဒာ အံ့အားသင့်သွားရတော့၏၊ ပါးစပ်အဟောင်းသားလည်း ဖြစ်၍ သွားတော့သည်။

"ကြည့်စမ်း...ဝါဝင်းသော ရွှေကိုယ်တော်မှာ ရင့်ရော်စေသော ဇရာတစ်မျိုးက လွှမ်းမိုးလာစ ပြုချေပြီကော၊ အကြော အရေတို့ပင် လျော့ရဲရဲ ဖြစ်လာမည့်ပုံမျိုးကို ဆောင်နေချေပြီတကား၊ ငွေဖယောင်းတိုင်ကဲ့သို့ ဖြောင့်မတ်ခဲ့သော ခန္ဓာကိုယ်တော်သည် ယခုအနည်းငယ်ပင် ရှေ့သို့ ကိုင်းသယောင်ယောင် ပုံဆောင်လာချေပြီတကား"။

## ဟယ်...ဇရာ, နင်ဟာ ယုတ်မာလှချေတကား

ဤသို့ တွေ့လာရသဖြင့် အရှင်အာနန္ဒာက မခံနိုင်လွန်း၍ ဇရာအယုတ်ကို ရန်လုပ်၍ ရန်တွေ့လိုက်သည်၊ "ဟယ်...ဇရာ, နင်ဟာ မသိဆိုးရွား မိုက်မဲလှချေတကား၊ ဘုရားကိုမျှ မချန်၊ သံသရာကိုလဲ နင်မကြောက်, မထောက်မထား အားအားစားစား သနားမဖက် နှိပ်စက်ရမည်ကိုသာ နင်သိ၏၊ ဂုဏ်ကိုလဲ မချိန်, သိန်ကိုလဲ မထောက်, အကြောက်မဖက်, အရှက်မကဲ, မိုက်မဲလှချေတကား၊ နင်ကား ရွံ့ဖွယ်အတိ ဖြစ်တော့သည်၊ စိုစိုပြည်ပြည်, နဂိုအနေတွင်, ကိုယ်ရေယွင်းကွက်, အဆင်းပျက်အောင်, နင်ဟာ အဖျက်သမား, သုံးလောကထိပ်ထား, သို့ကလောက်လှတဲ့ ဘုရားကိုယ်တော်ကိုပင်, နင်ဟာ နှိပ်စက်ရဲလှချေတကား"....

**ဓိ တံ ဇမ္မိ ဇရေ အတ္ထု, ဒုဗ္ဗဏ္ဏ ကရဏီ ဇရေ၊**
**တာဝ မနောရမံ ဗိမ္ဗံ, ဇရာယ အဘိမဒ္ဒိတံ။**

ဟူ၍ တစ်ချိန်တုန်းက ဇရာကိုပင် ရန်တွေ့ ရှုတ်ချခဲ့သော အရှင်အာနန္ဒာသည် ယခုလို လူးလဲဗျာမ မခံချိအောင် ပြင်းထန်စွာ နှိပ်စက်လာသော ဗျာဓိကိုကား အဘယ်မှာလျှင် ရန်မတွေ့ဘဲ နေချိမ့်လေမည်နည်း၊ ရန်တွေ့ဦးမည်သာ၊ ဤသို့လျှင် စိုးရိမ်ပူပန်စွာ ရင်တမမနှင့် နေခဲ့ရရာမှ မျှော်လင့်ချက်ကလေး တစ်ခုကို သတိရလာ၏။

"မြတ်စွာဘုရားသည် သံဃာများအား ထူးခြားသော နောက်ဆုံး အမှာတစ်ခုခု မမိန့်မြွက်ဘဲ ပရိနိဗ္ဗာန် မပြုတန်ရာ၊ ယခုအခါ ထိုသို့ မမိန့်မမြွက်ရသေးချေ" ဤသို့သော ဖြေသိမ့်စရာလေးပင် ဖြစ်သည်။

အတော်အတန် ကျန်းမာတော်မူလာ၍ မြတ်စွာဘုရားသည် ကျောင်းပြင်ဘက်သို့ ထွက်တော်မူ၏၊ ကျောင်းရိပ်ဝယ် အသင့်ခင်းထားသောနေရာတွင် ထိုင်တော်မူသည်၊ အရှင်အာနန္ဒာကား နောင်တော်ဘုရား ကျန်းမာလာသည်ကို ဝမ်းသာလွန်း၍ မည်သို့ လျှောက်ထားရမည်ကိုပင် မသိနိုင်အောင် ဖြစ်နေရတော့၏။

## ငါဘုရားထံမှာ ဆရာစား မချန်ပါ

သို့နှင့် စောစောပိုင်းက သူမှာ ခံစားခဲ့ရသော အခြေအနေ အဖြစ်အပျက်ကို တင်ပြ လျှောက်ထားလိုက်တော့၏၊ "နောင်တော်မြတ်ဘုရား, နောင်တော်အရှင်မြတ် ကျန်းမာလာသည်ကို ဝမ်းသာလှပါ၏၊ အနှိုင်းအဆမရှိ, ဝမ်းသာလွန်း၍ တိုင်းတာရန်ပင် ခက်လှပါသည်၊ ကိုယ်တော်အရှင်မြတ် မကျန်းမမာ စဉ်ကမူ တပည့်တော်မှာ ဆောက်တည်ရာမရ, မသက်သာလှအောင် စိတ်ဝေဒနာတွေ လူပ်ရှားခဲ့ရပါသည်၊ သွားမှန်းမသိ, စားမှန်းမသိ, ဝါးမှန်းမသိ ဖြစ်ခဲ့ရပါ၏၊ ဘာဝနာကိုလည်း မပွားအား, တရားဓမ္မတို့လည်း မထင်လာ၊ အရပ်မျက်နှာတို့မှာလည်း မသဲကွဲ, စိတ်ထဲတွင် အခံရခက်လှပါသည်ဘုရား၊ မျှော်လင့်ချက်ကလေး တစ်ခုမျှသာ ကျန်ပါတော့သည်၊ အဲဒါကကော့ ...

* မဟာဝဂ္ဂသံယုတ် – ၁၉၀။

"မြတ်စွာဘုရားသည် သံဃာများအား ထူးခြားနက်လေး အရေးကြီးသော နောက်ဆုံးအမှာတစ်ခုခု မမိန့်မြွက်ရသေး, မမိန့်မြွက်ရသေးသမျှ ပရိနိဗ္ဗာန်လည်း မပြုတန်ရာ"ဟူသော အချက်ပင်ဖြစ်ပါသည်။

အရှင်အာနန္ဒာဆိုလိုသည်မှာ လောကီဆရာများ၌ အာစရိယမုဋ္ဌိ (ဆရာ့လက်ထဲ၌ ဆုပ်ကိုင်ထားသော ပညာတစ်မျိုး) ရှိသေး၏၊ ထိုပညာမျိုးကို နောက်ဆုံးအချိန်ကျမှ အလွန်ရင်းနှီးသော တပည့်တို့အား ပြောပြလေ့ ရှိ၏၊ ဗုဒ္ဓမြတ်စွာ၌လည်း ထိုကဲ့သို့သော အာစရိယမုဋ္ဌိတရားမျိုး (ဆရာစား) ချန်ထားမှု ရှိလိမ့်ဦးမည်ဟု ယူဆထားသည်။

ထိုအခါ မြတ်စွာဘုရားက အမိန့်ရှိ၏၊ "အာနန္ဒာ, ရဟန်းသံဃာများက ငါဘုရားပေါ် ဘာတွေများ မျှော်နေကြသေးသနည်း၊ ငါဘုရားသည် (အတွင်းရေး အပြင်ပါ အကြွင်းအကျန် မထားဘဲ) သိစရာတရားဟူသမျှ အကုန်ဟောကြားပြသပြီးခဲ့ပေပြီ၊ ငါဘုရားထံမှာ ဆရာစား ချန်ထားသော တရားဟူ၍ မရှိပေ။

"အာနန္ဒာ, ငါသာလျှင် အစဉ်သဖြင့် ရဟန်းသံဃာကို ဦးဆောင်မည်၊ ငါ့ကိုသာလျှင် ရဟန်းသံဃာက ထာဝရအစဉ် အားကိုးနေစေရမည်"ဟု အယူအစွဲရှိသူတို့သာ (တစ်ကိုယ်တော် လူစွမ်းကောင်းဝါဒအတ္တကဲသူတို့သာ) ရဟန်းသံဃာအတွက် (လက်ဆုပ်လက်ကိုင် ဆရာစား ချန်ထား၍) တစ်စုံတစ်ခု မှာကြားနေရာ၏၊ ငါဘုရားမှာကား ထိုကဲ့သို့ အယူအစွဲ လုံးဝမရှိ၊ ထို့ကြောင့် ရဟန်းသံဃာများအား တစ်စုံတစ်ရာ မှာကြားနေစရာ မရှိတော့ပြီ၊ အကုန် ဟောကြားထားခဲ့ပြီ။"

## အခြားကို အားမကိုးနဲ့ တရားကိုသာ အားကိုးကြ

"အာနန္ဒာ, ယခုအခါ ငါဘုရားသည် အရွယ်တော် ယိုယွင်း၍ အိုမင်းလာပြီ၊ အသက်ရှစ်ဆယ်အတွင်းသို့ပင် ရောက်နေပြီဖြစ်၍ နောက်ဆုံးအရွယ်ဖြစ်နေပြီ၊ အာနန္ဒာ, ဟောင်းနွမ်းဆွေးမြေ့လာသော လှည်းအိုကြီးသည် ခနော်ခနဲ့ ဖြစ်လာ၏၊ ဟိုနေရာသည်နေရာ လျှော်တွေ ကြိုးတွေဖြင့် ဖွဲ့ချည်တုပ်နှောင်ထားမှသာ သွား၍ လာ၍ ဖြစ်နိုင်သကဲ့သို့ ထို့အတူ ငါဘုရား၏ ခန္ဓာကိုယ်သည်လည်း ဖလသမာပတ်တည်းဟူသော ကြိုးတို့ လွန်တို့ဖြင့် ဖွဲ့တုပ်ချည်နှောင်ထားမှသာ ကျန်းမာနိုင်တော့၏။

ထို့ကြောင့် အာနန္ဒာ, သင်တို့လည်း ဖလသမာပတ်ဖြင့် ကျန်းကျန်းမာမာ နေနိုင်ဖို့ရန် **မိမိကိုယ်ကို မှီခိုထောက်တည်ရာဖြစ်အောင် ရေလယ်က ကျွန်းကြီးသဖွယ် ပြုလုပ်ကြ, တရားတည်းဟူသော ကျွန်း, တရားတည်းဟူသော အားကိုးရာဖြစ်အောင် ကြိုးစားကြ, တခြား ဘာကိုမျှ အားမကိုးကြနှင့်**"။

ဤသို့လျှင် **"ပုဂ္ဂိုလ်ကိုးကွယ်မှုထက် တရားရေးရာကိုးကွယ်မှုကို အလေးထားကြရန်"**မိန့်မြွက်တော်မူလိုက်ခြင်း ဖြစ်၏၊ နာလန်ထစမို့ အသံတော်က သဲ့သဲ့ယဲ့ယဲ့ကလေးဖြင့် တိုးတိုးသက်သာ ဟောမိန့်ခဲ့ပါသော်လည်း ဤတရားတော်အချက်သည်ကား သာသနာတော်ကြီး တစ်ခုလုံးအတွက် အရေးအပါဆုံး အကွက်ပင် ဖြစ်ပါပေတော့သည်။

**"မိမိကိုယ်ကို မှီခိုရာကျွန်းသဖွယ် ပြုကြ"**ဟူသည့် ကာယ, ဝေဒနာ, စိတ္တ, ဓမ္မတို့၌ ရှုမှတ်အားထုတ်ခြင်းကို ဆိုလိုသည်"ဟု ဘုရားကိုယ်တော်တိုင် အဓိပ္ပာယ်ဖွင့်ပြတော်မူထား၏။

**မှတ်ချက်။** ။ဤနေရာတွင် ဤမဟာပရိနိဗ္ဗာနသုတ်၌ အရှင်သာရိပုတ္တရာ အရှင်မောဂ္ဂလ္လာန်တို့၏ ပရိနိဗ္ဗာန်စံခန်းများ မပါသော်လည်း အခြားကျမ်းတို့မှ ယူ၍ ဤကျမ်းငယ်၌ ထည့်ထား၏၊ ဆရာတော်၏ ရည်ရွယ်ချက်မှာ "သာသနာတော်၌ လျှမ်းလျှမ်းတောက် ကြီးကျယ်ခဲ့ကြသော သာသနာ့ထိပ်ခေါင်တင်တို့မှာ နောက်ဆုံးတွင် ဤကဲ့သို့ မမြဲခြင်းဖြင့် အဆုံးသတ်ကြရသည်"ဟု သက်သေ ထူလို၍ ဖြစ်ကောင်း ဖြစ်ပါလိမ့်မည်။

## ဖြစ်၍လာသမျှ ပျက်ကြရမှာချည်း

ဝေဠုဝရွာငယ်မှ ဝါကျွတ်သောအခါ မြတ်စွာဘုရားသည် သာဝတ္ထိမြို့သို့ ကြွတော်မူသည်၊ ထိုမြို့တွင် အရှင်သာရိပုတ္တရာက မိမိသည် ပရိနိဗ္ဗာန်ပြုပါတော့မည့်အကြောင်း, ခွင့်ပြုတော်မူပါမည့်အကြောင်း" လာ၍ လျှောက်ထား၏၊ ထို့နောက်တွင် ဗုဒ္ဓမြတ်စွာက သာဝတ္ထိမှ ရာဇဂြိုဟ်သို့ ခရီးဆက်တော်မူပြန်သည်၊ ရောက်၍မျှ မကြာမီ အရှင် မောဂ္ဂလ္လာန်က ပရိနိဗ္ဗာန် စံပြန်သည်၊ တစ်ပါးနှင့်တစ်ပါး

၁၅ ရက်မျှသာ ကွာခြား၏၊ ထို့နောက်ပိုင်းတွင် မြတ်စွာဘုရားသည် ဒေသစာရီလှည့်လည်ခဲ့ရာ ဥက္ကစေလမြို့သို့ ရောက်သွားတော်မူသည်၊ ဥက္ကစေလမြို့ ဂင်္ဂါမြစ်ကမ်းနားဝယ် ဘုရားက ဤသို့ မိန့်၏။ ...

"သာရိပုတ္တရာ, မောဂ္ဂလ္လာန်တို့ မရှိသဖြင့် သံဃာ့ပရိသတ်ကြီးသည် ဟာတိဟာတာကြီးလို (တစ်ခုခုလိုနေသလို) ထင်ရ၏၊ သူတို့ ရှိသောနေရာသည် ငါဘုရားရှိသော နေရာကဲ့သို့ စိတ်ချရ၏၊ ဤမျှအားကိုးကြရသည်၊ သူတို့ မရှိခြင်းသည် သစ်ပင်ကြီးတစ်ပင်မှာ အကိုင်းကြီး နှစ်ခု ကျိုးကျကုန်သကဲ့သို့ ထင်ရသည်၊ သို့စင်လောက်အားကိုးရသော သာဝကကြီး အစုံတို့သည် ပရိနိဗ္ဗာန်စံကုန်ကြသော်လည်း ငါဘုရားမှာ သောက ပရိဒေဝမဖြစ်ပါ၊ ဖြစ်လာသမျှအရာတိုင်း ပျက်သွားရခြင်းဖြစ်သော အဆုံးသတ်ရမြဲဖြစ်ချေသည်၊ မပျက်ပါစေနှင့်ဟု အဘယ်မှာ တောင့်တ၍ ရနိုင်ပါအံ့နည်း၊ တောင့်တ၍ ရရိုးမရှိပေ"။

ထို့နောက် ဥက္ကစေလမြို့မှ ဝေသာလီမြို့သို့ ကြွ၍ ဆွမ်းခံဝင်တော်မူ၏၊ ဆွမ်းဘုဉ်းပေးအပြီးတွင် အရှင်အာနန္ဒာနှင့်အတူ စာပါလစေတီသို့ ကြွတော်မူသည်၊ ထိုအခါ ဤသို့ မိန့်တော်မူ၏။

"အာနန္ဒာ...ငါဘုရားဖြစ်စေ, အခြားသူဖြစ်စေ မည်သူမဆို (တန်ခိုး၏အခြေခံ) ဣဒ္ဓိပါဒ်လေးပါးကို ပွားများထားသူသည် အာယုကပ်ပတ်လုံးသော်လည်းကောင်း, အာယုကပ်ထက် ပိုလွန်၍သော်လည်းကောင်း မသေဘဲ နေလိုလျှင် နေနိုင်၏"။

ဤသို့ အရိပ်အမြွက် မိန့်ကြားသည်ကို အရှင်အာနန္ဒာ မရိပ်စားမိ, မတောင်းပန်မိ ဖြစ်ခဲ့ရသည်၊ သုံးကြိမ်တိုင်တိုင် ပြန်၍ ဤစကားကို ထပ်ပြန်တလဲလဲ မိန့်သော်လည်း အကဲမဖမ်းမိခဲ့ဟု ဆို၏၊ ထို့ကြောင့် "သင့်နေရာ သင်သွားနေ"ဟု နောင်တော်ဘုရားက မိန့်ဆိုသဖြင့် အခြားသစ်ပင်အောက်သို့ ပြောင်းခဲ့ရသည်။

## နောက်သုံးလလွန်လျှင် ပရိနိဗ္ဗာန်ပြုအံ့

ထိုနေ့ကား မှတ်မှတ်ရရ မဟာသက္ကရာဇ် ၁၄၇ ခုနှစ် တပို့တွဲလပြည့်နေ့ ဖြစ်ပါ၏၊ "စိတ်နှလုံး အတုန်လှုပ်ရဆုံး, အချောက်ချားရဆုံးနေ့"ဟု ပြောလျှင် လွဲမည်မဟုတ်ပါ၊ မြတ်စွာဘုရားအနားမှ အရှင်အာနန္ဒာ ဖဲခွာ၍ အခြားသစ်ပင်အောက်သို့ ရောက်လျှင်ပင် မာရ်နတ်က ဝင်၍ "ပရိနိဗ္ဗာန်ပြုတော်မူပါ, အချိန်တန်ပါပြီ"ဟု လျှောက်တော့၏၊ ထိုအခါ "နောက်သုံးလလွန်လျှင် ငါဘုရား ပရိနိဗ္ဗာန်ပြုမည်"ဟု မိန့်တော်မူ၍ အာယုသင်္ခါရကို စွန့်လွှတ်တော်မူလိုက်သည်။

ဤအကြောင်းကြောင့် ကြောက်မက်ဖွယ်ကောင်းလောက်အောင် မြေလျှင် အကြီးအကျယ် ယိမ်းထိုးတုန်လှုပ်ခြင်း, နားကွဲမတတ် မိုးကြိုးတွေ ထစ်ချုန်းခြင်း, မျက်စကျိန်းလောက်အောင် လျှပ်စီးတွေ လက်ခြင်း, စိတ်ချောက်ချားဖွယ်ဖြစ်လောက်အောင် တော်လဲခြင်းတို့ ဖြစ်ပေါ်လာကြကုန်၏၊ ထိုအခါမှ အရှင်အာနန္ဒာသည် အလျင်အမြန် ဘုရားအထံသို့ ချဉ်းကပ်လာ၍ မေးလျှောက်ကြည့်ရာ အဖြစ်မှန်ကို သိရလေတော့၏၊ ထိုအခါ အရှင်အာနန္ဒာလည်း အံ့အားသင့်၍ နောင်တကြီးစွာ ရတော့သည်၊ တောင်းပန်ကြည့်၏၊ မရတော့၊ အချိန် လွန်သွားပြီ။

ထို့နောက် ထိုအရပ်မှ "မဟာဝုန်တောသို့ သွားကြစို့"ဟု အမိန့်ရှိသဖြင့် အမိန့်အတိုင်း နာခံခဲ့ရ၏၊ ထိုအရပ်မှာ ရှိသမျှ ရဟန်းတို့ကို အကုန်စုဝေးစေပြီးလျှင် ဗောဓိပက္ခိယတရား ၃၇ ပါးကို ဟောကြားပြသတော်မူ၏။

ထို့နောက် "ဘဏ္ဍရွာသို့ သွားကြစို့"ဟု မိန့်သဖြင့် နောက်တော်ပါးမှ တစ်ဖဝါးမခွာ လိုက်ပါခဲ့ရပြန်သည်၊ထိုအချိန်မှစ၍ မြတ်စွာဘုရားသည် ကုသိနာရုံဘက်သို့ ခြေဦးလှည့်တော်မူလိုက်ပြီ၊ နောက်ရင်းသို့ ပြန်၍ လှည့်တော်မမူတော့၊ ထို့နောက် ဟတ္ထိရွာ, အမ္ဗရွာ, ဇမ္ဗုရွာ, ဘောဂမြို့တို့ကို အစဉ်အတိုင်း ဒေသစာရီ လှည့်လည်တော်မူခဲ့၏၊ တစ်နေရာ တစ်နေရာလျှင် ရက်အနည်းငယ်စီ သီတင်းသုံးတော်မူခဲ့သည်၊ ကျွတ်ထိုက်သော သတ္တဝါရှိသမျှ ဘုရားအမှူးရှိသော သံဃာတော်တို့က ချီးမြှောက်တော်မူခဲ့ကြ၏။

ထိုမှတစ်ဖန် "အာနန္ဒာ...ပါဝါပြည်သို့ သွားကြစို့"ဟု ဆိုသဖြင့် နောက်ပါ သံဃာတို့လည်း မညည်းမညူ တသီတတန်းကြီး ခရီးဆက်ကာ လိုက်ပါကြပြန်သည်၊ နေဝင်ရီတရော ညနေချမ်းအခါတွင် ရောက်သွားကြရ၏၊ မြို့ပြင်ဘက်က စုန္ဒ၏ သရက်ဥယျာဉ်တွင် စခန်းချကြသည်၊ စုန္ဒသည်လည်း သူ့ဥယျာဉ်တွင် စခန်းချသည်ဆို၍ ဝမ်းသာအားရ ပြေး

လာ၏၊ နက်ဖြန်အတွက် ဘုရားအမှူးရှိသော သံဃာတော်တို့အား သူ့အိမ်တွင် ဆွမ်းဘုဥ်းပေးရန် ဖိတ်မန် လျှောက်ထားသွားလေသည်။

စုန္ဒက ဘာမျှ မသိ၍ ပျော်နိုင်သော်လည်း... အရှင်အာနန္ဒာ၏ ရင်တွင်းမှာကား တင်းကြပ်နေသည်။

## ကဆုန်လပြည့်နေ့ ဘာတွေ ဖြစ်မည်နည်း

ထိုနေ့ကား မှတ်မှတ်ရရ မဟာသက္ကရာဇ် ၁၄၈ ခုနှစ် ကဆုန်လဆန်း ၁၄ ရက်နေ့ ဖြစ်၏၊ ဘုရားရှင်ကိုယ်တော်တိုင်က "နောက် သုံးလ လွန်လျှင် ပရိနိဗ္ဗာန် ပြုမည်ဟု ဝန်ခံထားချက်အရ "ယနေ့ သုံးလပြည့်ပြီ၊ နက်ဖြန်ဆိုလျှင် သုံးလလွန်မည့်ရက်ပင် ဖြစ်တော့၏"ဟု တွေး၍ အရှင်အာနန္ဒာ အမှူးရှိသော ရဟန်းသံဃာတို့ ရင်တဒိတ်ဒိတ်နှင့် စိတ်လှုပ်ရှားနေရသော အချိန်များ ဖြစ်သည်။

မဟာသက္ကရာဇ် ၆၈ ခုနှစ် ဤကဆုန်လပြည့်နေ့တွင် အလောင်းတော် သိဒ္ဓတ္ထကို ဖွားမြင်ခဲ့၏၊ မဟာသက္ကရာဇ် ၁၀၃ ခုနှစ် ဤကဆုန်လပြည့်နေ့တွင်ကား သမ္မာသမ္ဗောဓိဉာဏ်တော်ကြီး ပွင့်လင်းလာတော်မူခဲ့သည်၊ ယခု နက်ဖြန် ကဆုန်လပြည့်နေ့တွင်ကား ဘုရားရှင်ကိုယ်တော်မြတ် သက်တော် ၈၀ တင်းတင်းပြည့်သောနေ့ဖြစ်၏၊ မည်သို့ မည်ပုံတွေ ဖြစ်မည်နည်း၊ မတွေးဝံ့အောင် ဖြစ်နေကြတော့၏၊ ရင်တဒိတ်ဒိတ် ခုန်နေကြတော့သည်။

ကဆုန်လပြည့်နေ့ နံနက်ပိုင်းသို့ ရောက်သောအခါ နောက်ပါ သံဃာများနှင့်တကွ စုန္ဒ၏အိမ်သို့ ကြွ၍ မွှန်မွှန်မြတ်မြတ် စီမံထားသော ဆွမ်းဘောဇဉ်တို့ကို ဘုဥ်းပေးတော်မူသည်၊ ပြီးလျှင် ဆွမ်းအနုမောဒနာ ပြုတော်မူ၏၊ ထို့နောက် မြို့ပြင်ဘက်က စုန္ဒ၏ သရက်ဥယျာဉ်သို့ ပြန်ကြွတော်မူခဲ့သည်၊ ထိုအချိန်၌ မြတ်စွာဘုရားမှာ သွေးဝမ်းသွန်သောရောဂါဟောင်းက ပြန်ပေါ်လာ၏၊ အရှင်အာနန္ဒာနှင့်တကွ သံဃာအများက ဝိုင်း၍ ပြုစုကြသည်။

## အနိစ္စာ ဝတ သင်္ခါရာ မမြဲကြချည်းသာ

"အာနန္ဒာ...ကုသိနာရုံကို သွားကြစို့"ဟု မိန့်တော်မူသဖြင့် အလိုတော်အတိုင်း အသင့်လိုက်ပါကြရသည်၊ လမ်းတွင် အားအင်ကုန်ခန်း ပင်ပန်းလွန်းလှသဖြင့် သစ်ပင်တစ်ပင်အောက်သို့ ဝင်၍ ခိုလိုက်ရ၏၊ ထိုစဉ်တွင် မလ္လမင်းသား ပုက္ကုသ ရောက်လာသဖြင့် တရားဟောတော်မူရပြန်သည်။

ထိုမှနောက် ဆက်၍ လျှောက်ရာ လမ်းတစ်လျှောက်တွင် အကြိမ်ကြိမ် နားရ၏၊ ပါဝါမြို့နှင့် ကုသိနာရုံသည် ၃ ဂါဝုတ်မျှသာ ဝေးသည်။

ဤခရီးလေး အကြားတွင်ပင် ဘုရားကိုယ်တော်မြတ်မှာ အားအင်ကုန်ခန်း၍ နွမ်းလျှခွေယိုင်ကာ ၂၅ ကြိမ်တိုင်တိုင် နားခဲ့ရ၏၊ ညနေတိုင်မှ ကုသိနာရုံသို့ ရောက်တော်မူတော့သည်။

ကုသိနာရုံ အင်ကြင်းဥယျာဉ်ကြီး၏ အရှေ့ဘက် နခမ်း ကောင်းကင်ယံထက်က ခပ်ရေးရေး ဝိုင်းစက်သော လပြည့်ဝန်းကြီးက ဆီးကြိုဦးခိုက်သမှု ပြုပါ၏၊ "ပို၍ ညဥ့်ပိုင်း ရောက်လာလျှင် ပို၍ လင်းသော အရောင်ဖြင့် ပူဇော်ပါမည်"ဟု လျှောက်ထားသလိုလည်း ထင်ရသည်။

မလ္လမင်းတို့၏ အင်ကြင်းရဂုံ ကုသိနာရုံအတွင်း၌ ခင်းထားအပ်သော ညောင်စောင်းငယ်ပေါ်တွင် မြောက်သို့ ဦးခေါင်းထား၍ လျောင်းတော်မူခဲ့သည်၊ ညောင်စောင်းအပေါ် ရွှေချောင်းတုံးကြီး တင်ထားသလို ဖြစ်တော့သည်၊ သုဘဒ္ဒပရိဗိုဇ်ကို ချေချွတ်တော်မူ၏၊ မဟာသုဒဿနသုတ်တော်ကြီးကိုလည်း ဟောကြားတော်မူသည်။

ကဆုန်လပြည့်နေ့ ညဥ့် ပစ္ဆိမယံနောက်ပိုင်းတွင်ကား...

**"ဟန္ဒ ဒါနိ ဘိက္ခဝေ, အာမန္တယာမိ ဝေါ၊**
**ဝယဓမ္မာ သင်္ခါရာ, အပ္ပမာဒေန သမ္ပာဒေထ"**

ဟူသော နောက်ဆုံးမှာတမ်း မိန့်ခွန်းတော်ကို မိန့်မြွက်တော်မူကာ ပရိနိဗ္ဗာန်ပြုသွားတော်မူရပါသည်။



ဦးကာက ရျာပနတွင်



ဦးကာက

## အသိရှင်းလို့ အရေးရှင်းတာပဲ

ဤ"နောက်ဆုံးဆယ်လ မြတ်ဗုဒ္ဓ"ကား ဤအကြောင်းအရာတို့ကို စုပေါင်း၍ ဖွဲ့နွဲ့ရေးထားသော ကျမ်းစာဖြစ်ပါသည်၊ ဘုရားရှင်၏ လုံ့လဝီရိယကြီးစွာဖြင့် ဆောင်ရွက်တော်မူပုံ အကြောင်းလည်း ကြည်ညိုဖွယ်ကောင်းလှပါသည်၊ ထို့ပြင် စာအုပ်ငယ်နောက်ပိုင်း၌ "နိဗ္ဗာန်အကြောင်း"နှင့် ပတ်သက်၍ ရှင်းပြထားသည်မှာ နားမလည်နိုင်စရာ မရှိလောက်အောင် ကွက်ကွက် ကွင်းကွင်း ရှင်းလှပါ၏။

မဟာသုဒဿနသုတ်ကိုလည်း မြန်မာပြန်၍ပေးထားရာ ရှင်းလင်းကြည်လင်စွာ နားလည်ခွင့်ရခဲ့ပါသည်၊ ဤသည့်အချက်ကို ကြည့်၍ ပရိတ်ကြီးနိဿယသစ်ကျမ်းပြု သပြေကန်ဆရာတော် အရှင်ဝါသေဋ္ဌာဘိဝံသ (အဂ္ဂမဟာပဏ္ဍိတ)က အောက်ပါအတိုင်း စကားနှစ်လုံးဖြင့် ချီးကျူးထားတော်မူသည်။

"ဆရာတော် အရှင်ဇနကာဘိဝံသဟာ ... အသိရှင်းလို့ အရေးရှင်းတာပဲ"တဲ့။

# အနတ္တာဆိုတာ ဘာလဲဘုရား

## ဗုဒ္ဓတရားသည် လူကြီးကြိုက်လော

မန္တလေးမြို့ ဝါးတန်း ၂၉ လမ်းမှ ဒကာကြီး ဦးကာက သည် အသက် ၉၀ ပြည့်လုနေပြီ၊ အသက်ကြီးသော်လည်း အလွန်ဇွဲကောင်းသူတစ်ယောက်ဖြစ်၏၊ အသက်ကြီး၍ စီးပွားရေးလုပ်ငန်းများမှ အနားယူသောအခါ စိတ်အား ကိုယ်အား ဖြစ်လာသည်၊ ထိုသို့ အားလပ်သော အချိန်အခါတို့တွင် သူတော်ကောင်းဓာတ်ခံရှိသူ ဖြစ်၍ ဘာသာရေး စာပေတို့ကို ဖတ်ရှုလေ့လာခြင်းဖြင့် အချိန်တို့ကို အသုံးချတော့သည်။

ငယ်ရွယ်စဉ်က စီးပွားရေးဘက်၌ လုံးပမ်းနေစဉ်က ဘာသာရေးကို စိတ်မဝင်စားနိုင်ခဲ့၊ စိတ်မဝင်စားအားသော်လည်း ယခုလို အသက်အရွယ် ရလာသောအခါတွင်ကား လေးလေးပင်ပင်ကြီး စိတ်ဝင်စားနေလေပြီ၊ ဗုဒ္ဓတရားတော်များသည် လူကြီးတို့၏ အစာ (လူကြီးကြိုက်)ဟု ဆိုရမည်လော၊ တစ်နည်းအားဖြင့် အသက်ကြီးလာတဲ့သူတိုင်း ဗုဒ္ဓတရားတော်ကို ထောက်ခံလာတတ်ကြ၏။

ဦးကာကသည် တရုတ်လူမျိုး ဖြစ်၏၊ တရုတ်အမျိုးသားတို့သည် စီးပွားရေး၌ စေ့စပ်တတ်သလို ယခုဘာသာရေး၌လည်း စေ့စေ့စပ်စပ် လေ့လာနေ၏၊ ဘာသာရေးစာပေ အခြေခံမှစ၍ ထွေထွေရာရာတို့ကို ဖတ်ရှု၍လာခဲ့ရာမှ ယခုအခါ ပါဠိတော်ဘာသာပြန်ကြီးတို့ကိုပင် တစ်ဆင့်တက်၍ ဖတ်ရှုနေလေပြီ၊ ထိုတွင် သံယုတ်ပါဠိတော် မြန်မာပြန်တို့ကို ဖတ်ရာ၌ သဂါထာဝဂ္ဂသံယုတ်မှ သက္ကာယဒိဋ္ဌိအကြောင်း, ဂေါဓိကသုတ်တွင် မာရ်နတ်ကြီးက အရှင်ဂေါဓိကရဲ့ လိပ်ပြာကို လိုက်ရှာနေပုံ, နိဒါနဝဂ္ဂသံယုတ်မှ အစေလကဿပနှင့် တိမ္ဗရုကတို့ အမေး ဘုရားရှင်၏ အဖြေတို့ကို ဖတ်ရာတွင် အလွန် စိတ်ဝင်စားခဲ့သည် ဆို၏။

## အသက်ဝိညာဉ် လိပ်ပြာမရှိ

ထိုသုတ်တို့မှာ သဿတဒိဋ္ဌိ, ဥစ္ဆေဒဒိဋ္ဌိတို့ကို ခွဲခြားပြ၍ အစွဲအလမ်းမျှသာဖြစ်ကြောင်း, အသက်ဝိညာဉ် လိပ်ပြာ ဇီဝ အတ္တတို့ မရှိကြောင်းကို ဖော်ပြသော သုတ်များဖြစ်ကြ၏၊ လူတို့ကား အထင်တစ်မျိုး ဖြစ်ကြသည်၊ အသက် ဝိညာဉ် လိပ်ပြာရှိသည်ဟုပင် ထင်ကြ၏၊ ဤအထင်ကား မည်သူမျှမသင်ရဘဲ မွေးရာပါပစ္စည်းကဲ့သို့ ဖြစ်တော့သည်၊ ငယ်ငယ်က စွဲလာခဲ့ကြ၏၊ ကြီးသောအခါ အရိုးခိုက်အောင် မြဲလာကြတော့သည်၊ ဤအသက်ဝိညာဉ်, လိပ်ပြာတို့နှင့် ပတ်သက်၍ တရုတ်လူမျိုးတို့က ပို၍ စွဲလမ်းတတ်ကြ၏၊ ဗုဒ္ဓတရားတော်က "အသက် ဝိညာဉ် လိပ်ပြာ မရှိ"ဟု ဆိုသောအခါ ဘဝင်မကျနိုင် ပို၍ ဖြစ်တော့သည်၊ ထို့ကြောင့် ဤပြဿနာများကို မေးမြန်းရန် ဆရာတော် အရှင်ဇနကာဘိဝံသထံသို့ ရောက်လာတော့၏၊ ထိုအခါဆရာတော်က မှုရင်းအစ ခန္ဓာငါးပါးကို လည်းကောင်း, ထိုခန္ဓာငါးပါးအပေါ် စွဲလမ်းတတ်ပုံများကိုလည်းကောင်း အခြေခံမှစ၍ တစ်စချင်းရှင်းပြ, တစ်ထစ်ချင်းပိုင်းပြ, တစ်ထုံးချင်လည်း ဖြေပြ၍ ဒါယကာကြီး ဦးကာက၏ သံသယကို ဖြိုခွဲရတော့သည်။

## အတ္တက လှုံ့ဆော်ပေးတယ်လို့

"ဒီလို ဒကာကြီးရဲ့, ဒီအကြောင်းကို ဒီလို စကြစို့၊ ဒကာကြီး သိချင်တာက "အနတ္တ"အကြောင်းဆို တော့ အနတ္တကို ထင်လွယ် မြင်လွယ်ဖို့ရာ အနတ္တရဲ့ ဆန့်ကျင်ဘက် "အတ္တ"အကြောင်းကို ဦးစွာ ပထမ ပြောကြဦးစို့လား"။

**ဒကာကြီးဦးကာက**။ ။ "တင်ပါ, ဆရာတော်သဘောကျ သလို စီစဉ်ပြီး ဟောပါဘုရား။

**ဆရာတော်** ။ ။ "ဟုတ်ပြီ, ဒီလိုဆိုရင် ဒီအတ္တကို လူတွေက ရှေးတုန်းက စပြီးတော့ ပေါ့လေ၊ "ကာရကော ဝေဒကော သာမီ, နိဝါသီ သော သယံဝသီ"လို့ သတ္တိတွေ တင်စားကြတယ်၊ ဒီ အတ္တရဲ့ အစွမ်းသတ္တိတွေကို ဖော်ပြကြတယ်၊ (ကာရကော) ပြုရေးပြုရာ, ပေါ်ပေါက်လာလျှင်, လျော်စွာတစ်ခုခုဖြင့်, ပြုစုတတ်ပေ၏တဲ့။

ဥပမာ-အခုဘုန်းကြီးက ဒကာကြီး နားလည် အောင် အသံတွေ ဘာတွေ ထုတ်ပြီး ရှင်းပြနေတယ်၊ ဒီလို အသံတွေ ထွက်လာအောင် အတ္တက စီစဉ် ပေးတာတဲ့။

ပါးစပ်ရယ်, ပါးစပ်ထဲမှာ, လည်ချောင်းထဲမှာရှိတဲ့ အသံဖြစ်ရမယ့် နေရာတွေရယ်၊ အဲဒီနေရာတွေ အားလုံးကို စုပေါင်းပြီး အသံလေးတွေ ထွက်လာ အောင် အတ္တက လုပ်ပေးတာတဲ့။

အခု ဘုန်းကြီးက လက်တွေ လှုပ်ရှားချင်တယ် ဆိုပါတော့၊ အဲဒီလို လှုပ်ရှားချင်တာကိုက အတ္တက လှုပ်ချင်တာ၊ သူက လက်ကလေးတွေကို အမိန့်ပေး တာ၊ ခိုင်းတာ၊ ဒါ့ကြောင့် လှုပ်လာတာတဲ့။

လမ်းလျှောက်ချင်တယ်၊ ခရီးသွားချင်တယ် ဆိုရင်လဲ, ဘယ်သူသွားချင်သလဲ, အတ္တက သွားချင် တာ, သွားချင်အောင် သူက လုပ်ပေးတာတဲ့၊ ခြေ ထောက်တွေ ကြွအောင် လှမ်းအောင်လဲ အတ္တက လုပ်ပေးတာချည်းပဲတဲ့၊ အဲဒါ ဒါယကာကြီးကော ဘယ်လို ထင်သလဲ"။

**ဒကာကြီးဦးကာက**။ ။ "တပည့်တော်လဲ ဒီအတ္တက စီမံ ပေးနေတယ်လို့ပဲထင်တယ်ဘုရား"

## အရာရာမှာ အတ္တချည်းပဲလို့

**ဆရာတော်** ။ ။ "အင်း-ဟုတ်ပြီ ဟုတ်ပြီ, ဒကာ ကြီးသာမကပါဘူး၊ သူများတွေလဲ ဒီလိုပဲ ထင်ကြတာပဲ၊ ဒီတော့ (ဝေဒကော)ကောင်း ကောင်း ဆိုးဆိုး, အမျိုးမျိုးကို, အကျိုးလျော်ကန်, ပေါ်လာပြန်လျှင်, ခံစံလည်း ခံစံတတ်ပေ၏" တဲ့။

တစ်ခါတလေ "အမယ်-အမယ်, နာလိုက်, ကျွတ် ကျွတ် ကျွတ်ကျွတ်"နဲ့, နာတာ ဘယ်သူက နာပါ သိမ့်, အတ္တက နာတာပဲ၊ ခေါင်းကိုက်တယ်ဆိုပါ တော့, ခေါင်းက နာတာလား, မဟုတ်ဘူး၊ အတ္တက နာတာ, အတ္တက ကိုက်တာ။

ခေါင်းမူးတယ်ဆိုရင် အတ္တက မူးတာ၊ ခါးကိုက် တယ်ဆိုလဲ အတ္တက ကိုက်တာပဲ၊ ဗိုက်နာတယ်ဆိုလဲ အတ္တက နာတာပဲ၊ ဒီနေ့ ထမင်းစားလို့ ကောင်းလိုက် တာ, အရသာ ရှိလိုက်တာ ဆိုတဲ့နေရာမှာလဲ အရသာ ကို အတ္တက ခံစားတာပဲတဲ့။

ရုပ်ပါရုံကို မြင်တဲ့ နေရာမှာလဲ အတ္တက မြင်တာ၊ လှလိုက်တာ, ငါသဘောကျလိုက်တာ၊ အဲဒီမှာလဲ ငါ သဘောကျလိုက်တာဆိုတာ အတ္တက သဘောကျ တာ, သဘောမကျဘူး ဆိုလျှင်လဲ အတ္တကပဲ သဘောမကျတာတဲ့, ဘယ့်နှယ်လဲ ဒကာကြီး". . .

**ဒကာကြီးဦးကာက**။ ။ "တင်ပါ ဘုရား, အဲဒီလိုပဲ ထင်ခဲ့ ပါတယ် ဘုရား။

## ခန္ဓာအိမ်တစ်ခုလုံး သူ့အုပ်စီးတယ်

**ဆရာတော်** ။ ။ "ဟုတ်တယ်, ထင်ကြမှာပဲ၊ ပြီးတော့ (သာမီ)-ခန္ဓာအိမ်ဆိုင်သမျှ, ပိုင်သအုပ်စီး, အရှင်သခင်ကြီးပေတည်းတဲ့၊ ဒီဟာတွေကို နားလည်လာမှ ဟို အနတ္တကို နားလည်မယ်၊ သဘောပေါက်မယ်။

ဒီခန္ဓာအိမ် ဘယ်သူ့အိမ်လဲ၊ ငါ့ခန္ဓာအိမ်လေ၊ ဘယ်သူပိုင်တာတုန်း၊ ငါပိုင်တာပေါ့, ကျူပ်ပိုင်တာ, ကျွန်တော်ပိုင်တာ, ကျွန်မပိုင်တာ အတူတူပါပဲ၊ ဒီ ခန္ဓာအိမ်ကို ငါပိုင်တယ်တဲ့၊ အိမ်တွင်းပစ္စည်းတွေလဲ ငါပိုင်တယ်တဲ့၊ အတ္တက။

ဒါ ဘယ်သူ့လက်လဲ၊ ငါ့လက်လေ၊ ဘယ်သူ့ခြေလဲ၊ ငါ့ခြေပေါ့၊ ဘယ်သူ့ဆံပင်လဲ ငါ့ဆံပင်၊ ဘယ်သူ့မျက်စိလဲ၊ ငါ့မျက်စိ၊ ဘယ်သူ့နားလဲ၊ ငါ့နား၊ အဲလို အားဖြင့် ခန္ဓာနှင့် ဆိုင်သမျှကို သူက ပိုင်တယ်တဲ့၊ ဒီလိုပဲ ထင်ကြတာပဲ မဟုတ်လား"။

**ဒကာကြီးဦးကာက**။ ။ "တင်ပါ, ထင်ကြတာပဲဘုရား။

## ခန္ဓာအိမ်တစ်ခုပြီးတစ်ခု ပြောင်းလဲ

**ဆရာတော်** ။ ။ "ပြီးတော့ (နိဝါသီ)တဲ့, ဟောင်းခန္ဓာအိမ်, ပျက်သည့်ချိန်ဝယ်, ခန္ဓာအိမ်သစ်, ပြောင်းကာဖြစ်၍, စနစ်မကွဲ, အမြစ်တွဲလျက်, တကထဲမှီ, အမြဲတည်သည့် သဘောပေတည်း"တဲ့။

အိမ်ကြီးတစ်ခု အိုသွားတော့ "အိမ်ကြီးက အိုသွားပြီ၊ ဒါ ကျွန်တော်အိမ်လေ၊ အသစ်ပြင်ဆောက်မယ်၊ ပထမအိမ်က ဟောင်းလို့ စွန့်လိုက်ပြီလေ။

တစ်စုံတစ်ခုကြောင့် ဒီခန္ဓာအိမ်ကြီး ချွတ်ယွင်းပျက်စီးလာပြီဆိုရင် စွန့်လိုက်တယ်၊ ခန္ဓာအိမ်သစ်လဲလိုက်တယ်၊ ခန္ဓာအိမ်သစ်လဲတော့ သူကြိုက်သလို လဲနိုင်ပ့ါမလားဆိုတော့, လူတွေလိုပဲ၊ တချို့ အိမ်သစ်လဲတော့ ပထမအိမ်ထက် ကောင်းတဲ့အိမ်ရတယ်၊ တချို့ကျတော့ ဝယ်စရာ ငွေကြေးနည်းလို့ ပထမအိမ်ထက် ညံ့သွားတယ်။

အဲလိုပဲ အတ္တက ကုသိုလ်ကံမကောင်းဘူးဆိုရင် ခန္ဓာအိမ်လဲတဲ့အခါ ငရဲ တိရစ္ဆာန် ပြိတ္တာဆုတဲ့ ညံ့တဲ့ ခန္ဓာအိမ်တွေ ရတယ်တဲ့။

ကံကောင်းရင်တော့ လူဖြစ်ရတယ်၊ နတ်ဖြစ်ရတယ်၊ ဗြဟ္မာဖြစ်ရတယ်၊ အတ္တကတော့ မပျက်စီးဘူး၊ ခန္ဓာအိမ်သာ သူ့ကံအလျောက် ပြောင်းသွားတယ်တဲ့၊ အတ္တကတော့ ဘယ်တော့မှ မသေဘူး ဆိုပါတော့။

**ဒကာကြီးဦးကာက**။ ။ "တင်ပါ, ဒီလိုပဲ ထင်ကြလို့ တစ်ဘဝက တစ်ဘဝသို့ ပြောင်းပြီး သံသရာထဲ လည်နေတယ်လို့... ပြောကြတာပဲ ဘုရား။

## အတ္တကို ပြုစုယုယနေကြခြင်း

**ဆရာတော်** ။ ။ "တချို့က ပြောတတ်ကြသေးတယ် ဒကာကြီးရဲ့၊ အဲဒီ ထွက်သွားတဲ့ အသက်ကောင်ကလေး, လိပ်ပြာကလေးက ကျန်ရစ်တဲ့ သားသမီးငယ်ကို လာ လာပြီး ခေါ်တတ်တယ်ဆိုပြီး "လိပ်ပြာ ခွဲပေးပါဦး"တဲ့။

တချို့ကျတော့ လူတစ်ယောက်သေပြီဆိုရင် လိပ်ပြာနေစရာ အိမ်ကလေး လုပ်ပေးကြသတဲ့၊ စားဖို့သောက်ဖို့လဲ သူကြိုက်တတ်တဲ့ အစားအစာတွေ အနားမှာ ထားလို့ ကျကျနန လုပ်ပေးတတ်ကြတသတဲ့။"

**ဒကာကြီးဦးကာက**။ ။ အဲဒါ တပည့်တော်တို့ တရုတ်လူမျိုးတွေပဲဘုရား၊ သိပ် အစွဲကြီးကြတာ။

**ဆရာတော်** ။ ။ ဟုတ်တယ် ဒကာကြီး, တရုတ်လူမျိုးတွေသာ မကပါဘူး၊ မြန်မာလူမျိုးတွေလဲ စွဲကြတာပါပဲ။

ခုမှ စွဲကြတာလဲ မဟုတ်ဘူး၊ ဟိုးရှေးရှေးက စပြီး တစ်ကမ္ဘာလုံး တစ်သံသရာလုံး စွဲလာကြတာပဲ၊ သိပ်စွဲချက်နာ, အင်မတန့်ကို စွဲချက် နာကြတယ်။

## ငါးဌာနအပေါ်မှာ စွဲလမ်းကြခြင်း

**ဆရာတော်။** ။ကဲ - ဘယ်အပေါ်မှာ စွဲကြသလဲဆိုတာ ဆက်ပြီး ပြောကြဦးစို့, အတိုချုပ်ပြောတော့ ခန္ဓာငါးပါးအပေါ်မှာ စွဲကြတယ်ပေါ့။

ရူပက္ခန္ဓာ, ဝေဒနာက္ခန္ဓာ, သညာက္ခန္ဓာ, သင်္ခါရက္ခန္ဓာ, ဝိညာဏက္ခန္ဓာ ဆိုတဲ့ ခန္ဓာငါးပါးပေါ့လေ။

ဒီခန္ဓာငါးပါးကတော့ ပရမတ္ထအားဖြင့် တကယ်ရှိ အစစ်ရှိ အဟုတ်ရှိ အမှန်ရှိတဲ့တရားပဲ၊ ဒါကြောင့် (သန္တော ကာယော သက္ကာယော)လို့ ဆိုကြရတာ၊ သန္တော-ပရမတ္ထအားဖြင့် တကယ်ထင်ရှား အစစ်အမှန်ရှိသော၊ ကာယော-ရုပ်နာမ်အစုအပေါင်းတည်း၊ သက္ကာယော-ပရမတ္ထအားဖြင့် တကယ် ထင်ရှား အစစ်အမှန်ရှိသော ရုပ်နာမ် အစုအပေါင်း၊ ဒါကြောင့် ခန္ဓာငါးပါးကို "သက္ကာယ"လို့ ခေါ်နိုင်တယ်၊ ဒီလို အစစ်အမှန် တကယ်ရှိတဲ့ခန္ဓာငါးပါး အပေါ်မှာ အစစ်အမှန် တကယ်မရှိတဲ့ အသက်ဝိညာဉ် လိပ်ပြာကောင်ကလေးတွေအဖြစ် စွဲထင်တတ်ကြတယ် ဒကာကြီးရဲ့။

**ဒကာကြီးဦးကာက။** ။ မှန်ပါ, ထင်ရှားအောင် အမိန့်ရှိပါဘုရား။

## ခန္ဓာငါးပါးအပေါ် တလွဲတချော်စွဲထင်

### ရုပ်တွေအထဲမှာ အသက်ရှိတယ်ထင်

**ဆရာတော်။** ။ ဒီ အသက် ဝိညာဉ် လိပ်ပြာ ဇီဝ အတ္တ ဒီနာမည်တွေဟာ အတူတူပဲနော ဒကာကြီး၊ အမျိုးမျိုးခေါ်နေကြတာ, စာဆန်ဆန် ပြောရင်တော့ အတ္တပေါ့၊ မြန်မာဆန်ဆန် ပြောရင် အသက်။

တချို့က ခန္ဓာငါးပါးရှိတဲ့အနက်က (ရူပက္ခန္ဓာ) ရုပ်ခန္ဓာပေါ်မှာ အသက်ရှိတယ်လို့ ထင်ကြတယ်၊ ဘုန်းကြီးလဲ ငယ်ငယ်တုန်းက ထင်ခဲ့တယ်၊ ဘုန်းကြီး ကျောင်းမနေရခင်ဆိုတော့ ၄ နှစ်သား အရွယ်လောက် ဖြစ်ပါလိမ့်မယ်၊ တစ်နေ့တော့ နေ့လယ်ခင်း ပျင်းပျင်းရှိတာနဲ့ အိမ်ပြတင်းပေါက်ဝ သွားရပ်မိတယ်၊ မျက်လုံးဟာ အိမ်အရှေ့ဘက်က မန်ကျည်းပင်ကြီးဆီ အလိုလို ရောက်သွားတော့တာပေါ့၊ တစ်ခါတည်း အတွေးတွေပါ ဝင်လာတော့တယ်။

"ဒီမန်ကျည်းပင်ကြီးက အရွက်ကလေးတွေ အညွန့်ကလေးတွေ ထွက်လာတာဟာ သားသမီးတွေပဲ၊ အသီးတွေလဲ သားသမီးပဲ၊ ဒါတွေကို လူတွေက ဆွတ်ခူးစားသုံးကြတယ်၊ ဒီတော့ လူတွေ ဗိုက်ထဲရောက်, အချို့လဲ ကျွဲ နွား တိရစ္ဆာန်ဗိုက်ထဲ ရောက်ကုန်၊ ဒီအသီးအရွက် အဖူး အညွန့်ကလေးတွေထဲမှာ အသက်တွေ ပါတယ်၊ ဒါကြောင့် တချို့လူဖြစ်, တချို့လဲ ကျွဲနွားတိရစ္ဆာန်တွေ ဖြစ်လာမယ်" လို့ စွဲထင်ခဲ့တယ်။

### ရူပက္ခန္ဓာမှာ အသက်ရှိတယ်တဲ့

ဒါဟာဆိုရင် သစ်ပင်သစ်ရွက်တွေထဲမှာအသက်ရှိတယ်လို့ ထင်ခဲ့တာဟာ ရုပ်တွေထဲမှာ (ရူပက္ခန္ဓာမှာ) အသက်ရှိတယ်လို့ ထင်တာပဲပေါ့၊ ကလေးဘဝမှာ ဘယ်သူမှ မသင်ရဘဲနဲ့ အလိုလိုစွဲထင်တဲ့အမှား။

ဘုန်းကြီးသာမကပါဘူး, အိန္ဒိယနိုင်ငံ ဟိန္ဒူတွေ တချို့လဲ ထင်ကြတယ်၊ ဘုရားလက်ထက်တော်တုန်းက မိုးတွင်းမှာ ဒေသစာရီ ရဟန်းတွေ ခရီးလှည့်လည်တော့ လူတွေကကဲ့ရဲ့ကြတယ်။

* ဘယ့်နှယ်လဲ, ရဟန်းတွေကလဲ မိုးတွင်းအခါကြီး ဟိုသွား ဒီသွားနဲ့, စိုက်ခင်း ပျိုးခင်းတွေထဲက စိမ်းစိမ်းစိုစို သစ်ပင်ကလေးတွေ, အသက်ရှိတဲ့အပင်ကလေးတွေကို နင်းချေသလို, သတ်ဖြတ်သလို ဖြစ်ကြတာပေါ့။

မိုးတွင်းအခါဆိုတာ ငှက်တွေတောင်မှ ကိုယ့်အသိုက်ထဲကိုယ် ငြိမ်ငြိမ်သက်သက် နေတတ်ကြတာပါ"။

---

* ဝိ - ၃ ၊ ပါ - ၁၉၂။

အဲသလို ကဲ့ရဲ့ကြလို့ ဘုရားကိုယ်တော်မြတ်က "မိုးတွင်းသုံးလမှာ ဘယ်မှမသွားကြနဲ့, ကိုယ့်ကျောင်း ကိုယ့်ကန်မှာ ငြိမ်ငြိမ်သက်သက်နဲ့ ဝါကပ်နေကြ"လို့ အမိန့်တော်ထုတ်ပြီးယူရတာ။

အဲဒီပုဂ္ဂိုလ်တွေဆိုရင်လဲ သစ်ပင်ကလေးတွေ အပေါ်မှာ အသက်ရှိတယ်လို့ ယူဆတော့ ရုပ် အပေါ်မှာ အသက်ရှိတယ်လို့ ယူဆကြတာပဲပေါ့။ ဒကာကြီးဦးကာက။ ။ မှန်ပါဘုရား, တပည့်တော်တို့လဲ ဒီလိုပဲ ယူဆတာဘုရား၊ ကိုယ့်အိမ်မှာ ကိုယ့် ဝင်းခြံထဲမှာ သစ်ပင် ပန်းမန်ကလေးတွေ စိုက်ထား, ညနေပိုင်းမှာ ရေကလေးတွေ ဖျန်းထား, မနက်ကျတော့ လန်းလို့ အညွှန့် ကလေးတွေ ခေါင်းထောင်လို့ ဆိုတော့ ဒါဟာ အသက်ရှိလို့ပဲလို့။

## ဝေဒနာ သညာ သင်္ခါရထဲမှာလဲ

ဟုတ်တယ် ဒကာကြီး, ဒါက နိယာမသဘောပဲ၊ နိယာမငါးမျိုးရှိတဲ့အနက်က ဗီဇနိယာမသဘောပဲ၊ အဲဒါကိုတော့ နောက်မှ သက်သက် တစ်ချိန်ချိန်မှာ သီးသန့် ရှင်းပြပါ့မယ်၊ အခု ရှေ့သွားကြဦးစို့။

တချို့က (ဝေဒနာက္ခန္ဓာ) ဝေဒနာထဲမှာ အသက် ရှိတယ်လို့ ထင်ကြတယ်၊ ဝေဒနာကို "ခံစားတယ်"လို့ ဘာသာပြန်ကြတယ်၊ ကောင်းတာရော, မကောင်း တာရောကို သူခံရတယ်၊ ဒါကို "ခံစားတယ်"လို့ ဆို ကြတာပဲ၊ ဝေဒနာစေတသိက်ပါပဲ၊ ကောင်းတာ လည်း သူခံရ, မကောင်းတာလဲ သူခံရ, ဒါကို သူသိ နေတယ်၊ ဒါကြောင့် ဒီ ဝေဒနာက္ခန္ဓာထဲမှာလဲ အသက်ရှိတယ်လို့ ထင်ကြပြန်တာ။

ဟိုဟာ မှတ်သားတတ်, ဒီဟာ မှတ်သားတတ်တဲ့ သဘောကို သညာလို့ ခေါ်တယ်၊ သညာက္ခန္ဓာပေါ့၊ ဒီမှာလဲပဲ အသက်ရှိလို့သာ မှတ်သားကောင်းတယ် လို့ ထင်ကြတယ်။

စေတသိက် ၅၂ မျိုးရှိတဲ့အနက်က ဝေဒနာနှင့် သညာကို ခွဲထုတ်ယူလိုက်တော့ ၅၀ ပဲ ကျန်တော့ တယ်၊ အဲဒီ ၅၀ ကို စာဆန်ဆန် ပြောရင် သင်္ခါရ က္ခန္ဓာလို့ ခေါ်တာပေါ့။

အဲဒီအထဲမှာ စေတနာတို့ကို ရှေ့က ဦးဆောင် တတ်တဲ့သဘောတရား, ကြိုးကြိုးစားစားလုပ်တတ် တဲ့ ဝီရိယစတဲ့ အရာတွေပါတော့ ဒီသင်္ခါရက္ခန္ဓာထဲ မှာလဲ အသက်ရှိတယ်လို့ပဲ ယူဆကြတယ်။

## အသက်လို့အထင်မှားဆုံးခန္ဓာ

နောက်တစ်မျိုးက ဝိညာဏက္ခန္ဓာပေါ့, ဒါက စာလိုပြောတာပါ၊ အရပ်သုံးအနေနဲ့ ပြောရင်တော့ "သိတတ်တဲ့ သဘောတရား"လို့ပဲ မှတ်ထားပါ ဒကာကြီး။

ဒီမှာ ပိုပြီး စွဲကြတာပေါ့, သိတတ်တာဟာ အသက်မို့လို့, အတ္တမို့လို့ သိတတ်တာပဲလို့ တစ်ခါ တည်း စွဲတော့တာပဲ။

ကဲ-အခုထိအောင် အသက်ကောင်, ဝိညာဉ် ကောင်, လိပ်ပြာကောင်, ဇီဝကောင်, အတ္တကောင် ရှိတယ်လို့ စွဲလမ်းရာ ဌာန ငါးမျိုးကို ပြောပြပြီးပြီ၊ (ရူပက္ခန္ဓာ, ဝေဒနာက္ခန္ဓာ, သညာက္ခန္ဓာ, သင်္ခါရ က္ခန္ဓာ, ဝိညာဏက္ခန္ဓာ) ဆိုတဲ့ ခန္ဓာငါးပါးပဲ။

ဒီခန္ဓာငါးပါးက အစစ်အမှန် ရှိတာ၊ အခုနတုန်း က အသက်ကောင် ဝိညာဉ်ကောင် လိပ်ပြာကောင် ဆိုတာတွေက အစစ်အမှန် မရှိတာ, ရှိတယ်လို့ ထင်နေကြတာ။

တကယ်ကတော့ "အသက်ကောင်"ဆိုတာကိုက မရှိတာ၊ အကောင်အလှောင်လဲ မရှိ, အခိုးအငွေ့လဲ မရှိ, "အသက်"လို့ ပြောနေကြတဲ့ အရာကိုက မရှိတာ။

## အတ္တက အလုပ်လုပ်နေတာ မဟုတ်

ခန္ဓာငါးပါးက သူ့အလုပ် သူ ကိုယ်စီကိုယ်င လုပ်နေကြတာပဲရှိတယ်၊ ရူပက္ခန္ဓာက ရုပ်သဘောအရ အားလုံးရဲ့ မှီရာ ခိုရာ ဥပနိဿယအဖြစ်နဲ့ တာဝန်ဆောင်တယ်။

ဝေဒနာက္ခန္ဓာက ကောင်းတဲ့အာရုံလဲ သူခံစံ၊ ဆိုးတဲ့အာရုံလဲ သူခံစံ၊ သူ့အလုပ် သူလုပ်တာပဲ၊ သညာက္ခန္ဓာကလဲ မှတ်သားစရာရှိသမျှ ကောင်းကောင်း ဆိုးဆိုး သူမှတ်တာပဲ။

သင်္ခါရက္ခန္ဓာထဲမှာ ပါတဲ့ စေတနာတို့၊ သဒ္ဓါတို့၊ ဝီရိယတို့၊ မေတ္တာတို့ အစရှိတဲ့ ကောင်းတဲ့စေတသိက်တွေ၊ လောဘ ဒေါသ မောဟတို့၊ ဣဿာ မစ္ဆရိယတို့၊ မာန်မာနတို့ စတဲ့ မကောင်းတဲ့စေတသိက်တွေ ဒါတွေကလဲ ကိုယ့်သဘာဝနဲ့ကိုယ် အလုပ်လုပ်နေကြတာပဲ။

ဝိညာဏက္ခန္ဓာကလဲ သိတတ်တဲ့သဘောတရားအရ သိတဲ့ အလုပ်ကို လုပ်နေကြတာပဲ၊ ဒါတွေကို အသက်ကောင်ကလေးက လုပ်နေတယ်လို့ အထင်မှားကြတာ၊ မဟုတ်ဘူး၊ အသက်ကောင် မရှိဘူး၊ အတ္တကောင် မရှိဘူး၊ ဒီလိုဆိုရင် "အနတ္တ"ပေါ့၊ အနတ္တဆိုတာ "အတ္တမရှိဘူး"လို့ ပြောတာ။

## အားလုံး အနတ္တလောကကြီးပဲတဲ့

### ခန္ဓာငါးပါးလုံး အနတ္တ

အတ္တလို့စွဲတာ ဒကာကြီးတို့သာ မဟုတ်သေးဘူး၊ အကုန်လုံးစွဲကြတာ၊ လူတွေ နတ်တွေ ဗြဟ္မာကြီးတွေပါ စွဲတာ၊ ခုမှ မဟုတ်ပါဘူး၊ သံသရာတစ်လျှောက်လုံး စွဲလာကြတာ၊ ဒါ့ကြောင့် ဘုရားကိုယ်တော်မြတ်က ဒီအစွဲတွေကိုပယ်ဖျက်ချင်လို့ တရားဦးဟောစ ဓမ္မစကြာအပြီးမှာ ဒီ "အနတ္တ"သုတ်ကို ဆက်ဟောတော်မူတာ၊ အလွန် ကောင်းပါတယ်။

"ရူပံ ဘိက္ခဝေ အနတ္တာ"တဲ့၊ ရုပ်တွေဟာ (သင်တို့ ထင်သလို) အတ္တမဟုတ်ဘူးတဲ့၊ လူတွေက ထင်ကြတယ် မဟုတ်လား၊ အတ္တဟာ အစွမ်းရှိတယ်၊ (သယံဝသီ) ကိုယ်ဖြစ်ချင်သလို ဖြစ်နိုင်တယ်လို့ ထင်ကြတယ်။

"ရူပဉ္စ ဟိဒံ ဘိက္ခဝေ အတ္တာ အဘဝိဿ" ရုပ်ဟာ အကယ်၍ အစွမ်းရှိတဲ့ အတ္တ ဖြစ်ခဲ့အံ့၊ "နယိဒံ ရူပံ အာဗာဓာယ သံဝတ္တေယျ" ရုပ်တရား ရုပ်ခန္ဓာကြီးဟာ ဖျားနာနေ၍ မကျန်းမမာ မဖြစ်ရာ-တဲ့။

ထို့ပြင်လဲပဲ ဒီရုပ်ခန္ဓာကြီးအပေါ်မှာ "ဒီလို လှလှပပကလေး ဖြစ်ပါစေ၊ ဒီလို မလှမပ အကျည်းတန်အရုပ်ဆိုကြီး မဖြစ်ပါစေနဲ့"လို့ တောင်တ၍လဲ ရစရာတဲ့၊ အခုတော့ တောင့်တလို့ မရ၊ ဒါကို ထောက်ဆသောအားဖြင့် ရုပ်တွေဟာ အတ္တ မဟုတ်ဘူး၊ အနတ္တလို့ မှတ်ပါတဲ့။

ဝေဒနာလဲ ဒီအတိုင်း၊ သညာလဲ ဒီအတိုင်း၊ သင်္ခါရလဲ ဒီအတိုင်းပဲ၊ ဖြစ်ချင်သလို တောင့်တလို့ မရပါဘူးတဲ့၊ ဒါကို ထောက်သောအားဖြင့် အနတ္တပဲတဲ့၊ ဒါကို ဒကာကြီး သဘောပေါက်လောက်ပါပြီ။

## အသက်မဟုတ်, သိတတ်တဲ့သဘော

သိတတ်တဲ့ စိတ်အားလုံးကို "ဝိညာဏက္ခန္ဓာ"လို့ ခေါ်တယ်၊ ဒီ ဝိညာဏက္ခန္ဓာကလဲ အနတ္တပဲ၊ ဘာလို့လဲဆိုတော့ ကောင်းတာကလေးတွေသာ ရွေးပြီး သိချင်ပေမယ့် မရဘူး၊ မကောင်းတာတွေလဲ သိနေရတာပဲ၊ ကိုယ်ဖြစ်ချင်တာ မဖြစ်ဘူး၊ ဒါကို ထောက်သောအားဖြင့် အတ္တမဟုတ်၊ အနတ္တပဲ၊ ခန္ဓာငါးပါးထဲမှာ ဒီဝိညာဏက္ခန္ဓာကို "အသက်ကောင်"လို့ အထင်ကြဆုံးပဲ၊ ဘာ့ကြောင့်လဲဆိုတော့ သိတတ်တာကိုး၊ သိတတ်တာလေးဟာ "အသက်ကောင်ပဲ"လို့ စွဲကြတယ်၊ ဟုတ်တယ် မဟုတ်လား ဒကာကြီး။

**ဒကာကြီးဦးဏက။** ။ တင်ပါ့ဘုရား, တခြားခန္ဓာတွေက အတ္တမဲဟုတ်ဘူး, အသက်ကောင်မဟုတ်ဘူးလို့ပြောရင် ထင်လွယ်မြင်လွယ်ပါတယ်ဘုရား၊ ဒီဝိညာဏက္ခန္ဓာကျတော့ သူကသိတတ်တဲ့အရာဖြစ်လို့ အသက်လို့ပဲ ထင်ထင်နေပါတယ်ဘုရား၊ အခု ဆရာတော်က "အသက်ကောင် မဟုတ်ဘူး, သိတတ်တဲ့သဘောသာ ဖြစ်တယ်" ဆိုလို့သာ ယုံကြည်လက်ခံရပါတယ်ဘုရား။

## ခန္ဓငါးပါးသာ ရှာဖွေ၍ ရရှိ

"ဟုတ်တယ် ဒကာကြီး, ခန္ဓာငါးပါးလုံး အတ္တ မဟုတ်ဘူးဆိုတာ၊ အကယ်၍ စိုးမိုးပိုင်သတဲ့ အတ္တ ဟုတ်ခဲ့ရင် ကိုယ်ဖြစ်ချင်တာ ဖြစ်မယ်၊ အခုတော့ မဖြစ်ဘူး၊ ဒါကို ထောက်ထားသောအားဖြင့် အားလုံး အနတ္တဆိုတာ ကျယ်ကျယ်ပြန့်ပြန့် တစ်ကန့်ချင်း တစ်ကန့်ချင်း ရှင်းပြတဲ့ အနတ္တလက္ခဏသုတ်ကို ထပ်မံ လေ့လာရပါဦးမယ်၊ ထပ်မံလေ့လာတဲ့အခါ ခန္ဓာငါးပါးသာလျှင် အစစ်အမှန်ရှိတဲ့တရား၊ သက္ကာယတရားလို့ တွေ့ရမယ်၊ အများထင်နေကြတဲ့ (အသက် ဝိညာဉ် လိပ်ပြာ ဇီဝ အတ္တ)ဆိုတဲ့ဥစ္စာတွေ ကတော့ တစ်ခုမှ ရှာမရဘူးဆိုတာ ပိုပြီးပေါ်လွင် လာပါလိမ့်မယ်။

**ဒကာကြီးဦးကာက**။ ။ ဆရာတော် အမိန့်ရှိတဲ့ အထဲမှာ "သက္ကာယ"ဆိုတဲ့ စကားလုံးပါလာတယ်၊ ဒါနဲ့စပ်လို့ "သက္ကာယဒိဋ္ဌိ-သက္ကာယဒိဋ္ဌိ"နဲ့ တပည့်တော် ကြားဖူးပါတယ်၊ အဲဒါက ဘယ်လိုလဲဘုရား။

# သက္ကာယဒိဋ္ဌိဖြစ်တယ်ဆိုတာ

## ဘယ်ဟာမျိုးလဲ သက္ကာယဒိဋ္ဌိများ

"ဟုတ်တယ်, ဒါ သိဖို့ကောင်းတယ်၊ မေးထိုက်တဲ့ မေးခွန်းပဲ၊ ဒီလို ဒကာကြီးရဲ့ အခုနတုန်းက ခန္ဓာငါးပါးအကြောင်းကို ပြောခဲ့ပြီနော်၊ ခန္ဓာငါးပါးဟာ ပရမတ္ထအားဖြင့် အထင်အရှား တကယ်အစစ်အမှန် ရှိလို့ "သက္ကာယ"လို့ ခေါ်ကြကြောင်းကိုလည်း ပြော ပြီးပြီနော်။

**ဒကာကြီးဦးကာက**။ ။ တင်ပါ ဘုရား။

**ဆရာတော်** ။ ။ ဟုတ်ပြီ, အဲဒီထင်ရှားရှိတဲ့ အစစ်အမှန် ခန္ဓာပေါ်မှာ မစစ်မမှန် (လွဲလွဲမှားမှား) ရှုမှတ်ခြင်းကို "ဒိဋ္ဌိ"လို့ ခေါ်တယ်။

**ဒကာကြီးဦးကာက**။ ။ မှန်ပါ ဘုရား။

**ဆရာတော်** ။ ။ ဒီတော့ သက္ကာယနဲ့ တွဲကြစို့ ... သက္ကာယဆိုတာက အစစ်အမှန်ရှိတာ, ဒိဋ္ဌိဆိုတာကတော့ မစစ်မမှန် ရှုမြင်ခြင်း, အစစ်အမှန်ပေါ်မှာ မစစ်မမှန် လွဲလွဲမှားမှား ရှုမှတ်ခြင်းကို "သက္ကာယဒိဋ္ဌိ"လို့ ခေါ်တယ် ဒကာကြီးရဲ့။

**ဒကာကြီးဦးကာက**။ ။ တင်ပါဘုရား, ဘယ်လို မစစ်မမှန် လွဲလွဲမှားမှား ရှုတာပါလဲဘုရား။

**ဆရာတော်** ။ ။ ဟုတ်လိုက်တာ ဒကာကြီးရယ်... အဲလို မေးမှပေါ့၊ ဒါမှ အကွက်ကျတာ၊ ဒီလို-ဒကာကြီးရဲ့၊ ခန္ဓာငါးပါးရှိတဲ့ အနက်က ရူပက္ခန္ဓာကိုပဲ ဦးစွာ ပြောကြစို့။

## မှားယွင်းသော စွဲလမ်းမှုများ

ရူပက္ခန္ဓာကို ရုပ်ကို...

(က) တေံ မမ-ဤရုပ်သည် ငါ၏ ဉစ္စာတည်း။

(ခ) ဧသောဟမသ္မိ-ဤရုပ်သည် ငါပင် ဖြစ်၏။

(ဂ) ဧသော မေ အတ္တာ-ဤရုပ်သည် ငါ၏ အတ္တ ဖြစ်၏။

အဲလို တဏှာ မာန ဒိဋ္ဌိတို့ဖြင့် စွဲလမ်းတာဟာ လွဲလွဲမှားမှား စွဲလမ်းခြင်းပဲ၊ မမှန်မကန် ရှုမှတ်ခြင်းပဲ၊ မှောက်မှားသော အမြင်ပဲ၊ ဒါ ဒိဋ္ဌိပေါ့၊ "သက္ကာယ ဒိဋ္ဌိ"ပဲ ဒကာကြီး။

ထို့အတူပဲ ကျန်တဲ့ ဝေဒနာ သညာ သင်္ခါရ ဝိညာဏက္ခန္ဓာအပေါ်မှာ လွဲမှားစွာ ရှုမြင်ခြင်းဟာလဲ "သက္ကာယဒိဋ္ဌိ"ပဲ ဒကာကြီး။

## မစွဲလမ်းသင့်ခြင်းအကြောင်း

ခန္ဓာငါးပါးကို အကျဉ်းချုံးရင် ရုပ်နဲ့နာမ်ပဲ၊ ဒီ ရုပ်တွေ နာမ်တွေဆိုတာ ဖြစ်ပြီး ပျက်နေတဲ့ ဥစ္စာ၊ ရုပ်တည်ခိုင်မြဲနေတယ်လို့ တစ်ခုမျှ မရှိပါဘူး၊ ဒါကို “ငါ့ ဥစ္စာ”လို့ ကိုယ်က တဏှာနှင့် စွဲနေတုန်း သူက ပျက်သွားပြီ၊ “ငါ့ရုပ်ပါ”လို့ စွဲနေတုန်း သူက ပျက်သွားပြီ၊ စွဲလမ်းချင်စရာ ကောင်းသေးရဲ့လား၊... မကောင်းတော့ဘူး။

တစ်ခါ ဒီအဖြစ်အပျက်ဒဏ်တွေ ခံနေရတဲ့ ရုပ် ခန္ဓာကြီးဟာ “ငါပဲကွ”လို့ မာနနဲ့ စွဲနေတုန်း သူက ပျက်သွားပြီ၊ အများကတော့ “ငါ”လို့ တစ်ငါ တည်း ငါနေကြတာပဲ၊ ဒါပေမယ့် ပျက်ပျက်ကုန် တော့ စွဲချင်စရာပင် မကောင်းတော့ဘူး။

ပြီးတော့ ဒီဖြစ်ချည် ပျက်ချည် အတည်မကျ အဖြစ်အပျက်ဒဏ် ခံနေရတဲ့ ရုပ်ခန္ဓာဟာ “ငါ၏ ကိုယ်ပိုင်ဖြစ်တဲ့ အတ္တပဲ”လို့ ဒိဋ္ဌိစွဲနှင့် စွဲနေတုန်း သူက ပျက်သွားပြီ၊ စွဲဖို့တောင် မကောင်းတော့ဘူး။

# သက္ကာယဒိဋ္ဌိ နှစ်ဆယ်
## ရှုပုံရှုနည်း ၄ မျိုးပြား၍

အဲလို မစွဲလမ်းသင့်ဘဲလျက် တဏှာ မာန ဒိဋ္ဌိ တို့ဖြင့် အလွဲလွဲ အမှားမှား စွဲလမ်းသည့်အတွက် “သက္ကာယဒိဋ္ဌိ”လို့ ဖြစ်လာရတာပဲ ဒကာကြီး၊ အဲဒီ သက္ကာယဒိဋ္ဌိဟာ ဖြန့်ကြည့်ရင် အခြေခံအားဖြင့် ၂၀ တောင် ဖြစ်လာတယ်။

**ဒကာကြီးဦးဏာက**။ ။ ဘယ်လို ဖြစ်လာတာလဲ ဘုရား။

**ဆရာတော်** ။ ။ မူလပင်ရင်းပါဠိတော်မှာတော့ -

* **ရူပံ အတ္တတော သမနုပဿတိ၊ ရူပဝန္တံ ဝါ အတ္တာနံ၊ အတ္တနိ ဝါ ရူပံ၊ ရူပသ္မိံ ဝါ အတ္တာနံ** - စသည်ဖြင့် ဟောထားတာ ရှိတယ်၊ ဒါတွေ ထားပါ တော့ အရပ်သုံးစကားနဲ့ပဲ ပြောကြစို့၊ ပုထုဇဉ်သား တစ်ယောက်သည်...

(၁) ရုပ်ကို အတ္တဟူ၍ ရှု၏၊
(၂) ရုပ်ရှိသော အတ္တဟူ၍ ရှု၏၊
(၃) အတ္တ၌ ရုပ်ဟူ၍ ရှု၏၊
(၄) ရုပ်၌ အတ္တဟူ၍ ရှု၏။

အဲလို ရှုပုံရှုနည်း ၄ မျိုး၊ ရူပက္ခန္ဓာတစ်ပါးတည်း အပေါ်မှာပဲ ၄ မျိုး၊ အဲဒီ ၄ မျိုးကို သေသေချာချာ စိစစ်ကြည့်မယ်ဆိုရင်...

(၁) ရုပ်ကို အတ္တလို့ (ရုပ်နှင့် အတ္တ မကွဲ မပြား ယူဆချက်)
(၂) ရုပ်ရှိသော အတ္တလို့ (ရုပ်နှင့်အတ္တ ခွဲခြား၍ ယူဆချက်)
(၃) အတ္တ၌ ရုပ်တည်တယ်လို့ (အတ္တကို အမှီခံ အဖြစ် ယူဆချက်)
(၄) ရုပ်၌ အတ္တတည်တယ်လို့ (ရုပ်ကို အမှီခံ အဖြစ် ယူဆချက်)

အဲလို ရူပက္ခန္ဓာတစ်ပါးအပေါ်မှာ ၄ မျိုး ကွဲပြားသလို ဝေဒနာက္ခန္ဓာ သညာက္ခန္ဓာ သင်္ခါရက္ခန္ဓာ ဝိညာဏက္ခန္ဓာတို့ အပေါ်မှာလဲ ၄ မျိုးစီပဲ ကွဲပြားတယ်၊ ဒါကြောင့် (၅×၄=၂၀ လို့) “သက္ကာယဒိဋ္ဌိ နှစ်ဆယ်” ဖြစ်လာတယ် ဒကာကြီး။

**[ရုပ်ကို အတ္တ, ရုပ်ရှိ အတ္တ, အတ္တ၌ ရုပ်,
ရုပ်၌ အတ္တ, ဤလေး၀, မှားကြ ပုထုဇဉ်။]**

**ဒကာကြီးဦးဏာက**။ ။ ကျေးဇူးတင်ပါတယ် ဘုရား၊ ... နောက်လဲ မရှင်းတာလေးတွေ လာမေးချင်ပါတယ်, ခွင့်ပြုပါ ဘုရား။

**ဆရာတော်** ။ ။ လာပါ ဒကာကြီး, လာနိုင်ပါတယ်၊ ခွင့်ပြုပါတယ်၊ မေးတာပေါ့။

---

* ခန္ဓဝဂ္ဂသံယုတ်၊ ဗန္ဓန – ၁၃၄။

## အနတ္တတရားကို သိချင်သူများ

### အနတ္တတရားက မိတ်ဆက်ပေး၍

ဆရာတော်ကြီး အရှင်ဇနကာဘိဝံသထံ တစ်ချိန်တုန်းကလည်း ဤ "အနတ္တ"အကြောင်းကို ရန်ကုန်တက္ကသိုလ်ကျောင်းအုပ်ကြီးဟောင်း ဆရာကြီး ဦးဖေမောင်တင်က လာ၍ မေးဖူး၏၊ ဆရာကြီး ဦးဖေမောင်တင်သည် ဆရာတော့်ထံသို့ ၃ ခေါက်တိတိပင် လာ၍ အနတ္တအကြောင်းကိုပင် ကျေနပ်သည်အထိ မေးမြန်းလျှောက်ထားသွားဖူးလေသည်။

ယခု ဒါယကာကြီး ဦးကာကသည်လည်း ဆရာတော်ထံ တစ်ကြိမ်ရောက်ပြီးကတည်းက ရင်းနှီးမှုရ၍ မကြာခဏ ရောက်ရောက်လာလေပြီ၊ ပထမသော် ဥပုသ်နေ့တွင် လာတတ်၏၊ နောက်ပိုင်းတွင်ကား ဥပုသ်နေ့မှာ အခြား ဒါယကာ ဒါယိကာမများလည်း လာတတ်သဖြင့် လွတ်လွတ်လပ်လပ် မမေးရမည် စိုး၍ အဖိတ်နေ့တိုင်းလို လာတော့သည်။

ဆရာတော်ကလည်း စိတ်ရှည်ရှည်ထား၍ ဖြေကြားပေးလေ့ ရှိတတ်၏၊ ဤနည်းဖြင့် ရက်ပေါင်းလပေါင်းမျှမက နှစ်သို့ပင် တိုင်လာလေပြီ၊ ဆရာကြီး ဦးဖေမောင်တင်သည် ဆရာတော့်ထက် ၁၀ နှစ်ခန့်ကြီးသလို, ဒါယကာကြီး ဦးကာကသည်လည်း ၁၀ နှစ်ကျော်ကျော်ခန့်ပင် ကြီးကြလေ၏။

## မွေးနေ့မင်္ဂလာနှင့်အနတ္တတရား

### အနတ္တတရားလက်ဆောင်ဝေ

တစ်နေ့တွင် ဒါယကာကြီး ဦးကာက၏ နှစ် ၉၁ ပြည့် မွေးနေ့မင်္ဂလာ ကျင်းပကြ၏၊ သူတို့၏ နေကြာခြီတွင် ပြုလုပ်ကြသည်၊ ဤမွေးနေ့မင်္ဂလာပွဲသို့ ဆရာတော်ကြီးအရှင်ဇနကာဘိဝံသကိုလည်း အထူးပင့်လျှောက်၍ တရားနာယူကြသည်။

ဆရာတော်ကလည်း လိုက်ပါကြွရောက် ချီးမြှောက်၍ ဒါယကာကြီး နှစ်သက်သော "အနတ္တတရားတော်"ကိုပင် ကျယ်ကျယ်ပြန့်ပြန့် ဟောကြားပေးတော်မူ၏၊ ထိုအချိန်က အသံဖမ်းကြိုးခွေဖြင့် ဖမ်းယူထားသောကြောင့် ယခုအချိန်အထိ နာယူနိုင်ကြခြင်း ဖြစ်ပါသည်၊ မွေးနေ့လက်ဆောင်အဖြစ် အနတ္တတရားကို ကမ်းလှမ်း ဝေဖြန့်ခြင်း ဖြစ်၏။

ဒါယကာကြီး ဦးကာကနှင့် ဆရာတော်ကြီး အရှင်ဇနကာဘိဝံသတို့ ဆက်ဆံလာကြသည်မှာ ယခုအခါ ၄ နှစ် ခရီးသို့ပင် ရောက်လာချေပြီ၊ ဆရာတော်နှင့် ဆက်ဆံရ၍ ဘာသာရေးဗဟုသုတတွေ ပြည့်ဝမောက်ဖြိုးနေအောင် ရခဲ့ရသည်။

**"မိုင်တစ်ထောင်ခရီးသည် ခြေတစ်လှမ်းမှ စရ၏"** ဟူသော တရုတ်စကားပုံ ရှိသည်၊ ယခု တရုတ်လူမျိုးအစစ် ဒါယကာကြီး ဦးကာက၏ ဘာသာရေး မိုင်တစ်ထောင်ခရီးတွင်လည်း ခြေတစ်လှမ်းမှ (အသေးအဖွဲ့ကလေးမှ)ပင် စခဲ့ရရာ ယခုအခါတွင် မိုင်တစ်ထောင်ခရီး ပြည့်၍ အနတ္တဗဟုသုတတို့ဖြင့် မောက်ဖြိုးနေတော့သည်။

ဒါယကာကြီး ဦးကာက၏ စေတနာတို့က လှုံ့ဆော်လာကြသဖြင့် တစ်နေ့တွင် ဆရာတော်အား လျှောက်ထားလာတော့၏။

"ဤမဟာဂန္ဓာရုံကျောင်းတိုက် သံဃာတော်များအတွက် ဆွမ်းချက်ရာတွင် အသုံးပြုဖို့ရန် မီးဖိုကြီးတစ်ခု ဆောက်လုပ်လှူဒါန်းပါရစေ"

ထိုအခါ ဆရာတော်ကလည်း "တရွေ့ရွေ့များလာသော သံဃာများ၏ ဘုန်းကံပင် ဖြစ်ပေမည်" ဟုအောက်မေ့ကာ "သင့်တော်ရုံမျှသာ ဆောက်လုပ်ပါ"ဟု ခွင့်ပြုတော်မူလိုက်၏။

## မပိုင်သော အနတ္တခန္ဓာကိုယ်

ဒါယကာကြီး ဦးကာကကို အကြောင်းပြု၍ သား သမီးများသည်လည်း အမရပူရ မဟာဂန္ဓာရုံကျောင်း တိုက်နှင့် ရင်းနှီးလာကြတော့၏ ဆောက်လုပ်လာခဲ့ သော မီးဖိုကြီးသည်လည်း အတော်ခရီးရောက် နေပြီ၊ ဒါယကာကြီး ဦးကာက စီမံထားသည်မှာ တစ်သိန်း နီးပါးခန့် ကုန်မည့် မီးဖိုကြီး ဖြစ်နေ တော့၏။

ဒါယကာကြီး၏ အသက်မှာလည်း ယခုအခါ ၇၄ နှစ် ရှိလေပြီ၊ မီးဖိုကြီးလည်း ပြီးခါနီးလေပြီ၊ သို့သော် ရေစက်ချပြီးအောင် မစောင့်ဆိုင်းဘဲ ကိုယ်မပိုင် သော အနတ္တခန္ဓာကိုယ်က ဒါယကာကြီး ဦးကာက ကို စွန့်ခွာသွားလေပြီ။

## မျှော်မှန်းချက်နှင့် အောင်မြင်မှုများ
## ကံသာအမိ ကံသာအဖ စီရင်ကြမြဲ

အမရပူရ မဟာဂန္ဓာရုံဆရာတော်၏ ငယ်ဆရာ မှာ မြောင်းမြ (ဝိသုဒ္ဓါရုံ) သာသနာပိုင်ဆရာတော် ဘုရားကြီး ဖြစ်၏၊ ထိုဆရာတော်ကြီးမှာ ခန္ဓာကိုယ် ထောင်ထောင်မောင်းမောင်းကြီးနှင့် ကျန်းမာရေးက လည်း ကောင်း၍ သက်တော်လည်း ၈၅ နှစ် ရှည် တော်မူပါသည်။

ထို့ကြောင့် မဟာဂန္ဓာရုံ ဆရာတော်ကလည်း ခန္ဓာကိုယ် ဝဝဖိုင့်ဖိုင့်နဲ့ ကျန်းမာရေးလည်း ကောင်း လှသဖြင့် (သူ့ဆရာတော်ကြီးလို) သက်တော် ၈၅ နှစ်လောက်တော့နေရမည်ဟု ယူဆထား၏။

နောက်တော့မှ "အေးလေ, အင်မတန် ဘုန်းကံ ကြီးမားတဲ့ ဘုရားကိုယ်တော်မြတ်သော်မှ သက် တော် ၈၀ ပဲ နေရတာ၊ ငါလဲ ၈၀ လောက်ဆိုရင် တော်ပါပြီ"ဟု စိတ်ကို လျှော့ချလိုက်တော့သည်၊ သို့သော် မည်သို့ပင် သက်တမ်းကို တွက်ဆ ပိုင်းခြား နေသော်လည်း ကိုယ့်ပါရမီနှင့် ကိုယ်လာခဲ့ကြသည် မဟုတ်ပါလော၊ မည်သူက မည်မျှအသက် ရှည်စေ၊ မည်သူကတော့ မည်မျှသာဟူ၍ မည်သူ ပိုင်းခြား နိုင်အံ့နည်း၊ ပိုင်းခြားနိုင်သူကော ရှိပါသလော၊ စင်စစ်ကား ပိုင်းခြားနိုင်သူမှာ ကံတရားသာတည်း။

## ခန္ဓာသာ အို, စိတ်က မအိုသေး

၁၃၃၈ ခု တပေါင်းလကွယ်နေ့ ဖြစ်၏၊ မီးတင်း ကုပ် အုတ်တိုက်ကျောင်းကြီး ရေစက်ချပွဲနေ့ ဖြစ် သည်၊ မန္တလေးမြို့ ကွယ်လွန်သူ ကျောင်းဒကာကြီး ဦးကာက ရှိစဉ်ကပင် မဟာဂန္ဓာရုံသို့ လာ၍ တစ် သိန်းကျော်တန် ဆွမ်းချက်ဖို့ မီးတင်းကုပ်ကြီးတစ်ခု ဆောက်လုပ်လှူဒါန်း၏၊ ယခုအခါ ပြီးစီးပြီ ဖြစ်၍ ကျန်ရစ်သူ မိသားစုက ရေစက်ချလှူဒါန်းကြသည်၊ ဤပွဲ၌ ကျောင်းတိုက်အတွင်းရှိ သံဃာတော် ၅၀၀ ကျော်အား နံနက်ဆွမ်း နေ့ဆွမ်း နှစ်ထပ်ဆက်ကပ် ကြသည်။

နံနက်ဆွမ်း လောင်းလှူရာတွင် ဆရာတော် ကိုယ်တိုင်လာ၍ ကြပ်မတ်ကြည့်ရှုသည်၊ ခါတိုင်း လည်း ဤသို့ပင် လာ၍ ကြည့်ရှု ကြပ်မတ်နေကျ ဖြစ်၏၊ ပြီးခါနီးမှ စာချဘုန်းကြီး တစ်ပါးပါးအား လွှဲအပ်ထားခဲ့၍ ယာဂုဘုဉ်းပေးရန် သူ့နေရာသို့ ခပ်သုတ်သုတ် ပြန်လေ့ရှိသည်၊ ထို့နေ့ကလည်း ထုံးစံ အတိုင်း ပြန်၍ သွားစဉ် ခွေးတစ်ကောင်က ဆွမ်းခံ သံဃာတန်းထဲသို့ ဝင်လာသည်ကို မြင်လိုက်ရ၏၊ သို့နှင့်အခြောက်ခိုင်းရင်း အသွားမပျက် သွားရာတွင် ဆရာတော် ခလုတ်တိုက်၍ လဲတော့သည်။

ဇရာပိုင်းရောက်လာပြီဖြစ်၍ အကြောအခြင်တို့ က ယွင်းယို, ခန္ဓာကလည်း အိုပြီ ဖြစ်၍ မနိုင်နိုင် အောင် ဖြစ်တော့၏၊ ဆရာတော်ကား ခန္ဓာသာ အိုသည်၊ စိတ်တော်က မအိုသေးသလို ဖြစ်နေ၏၊ ငယ်စဉ်ကလိုပင် ထက်လျက် သွက်လျက်ပင် ရှိသည်။

## အလုပ်နှင့်အချိန်ကို တန်ဖိုးထား

ဆရာတော်က အရာရာတွင် ဝီရိယကဲတော်မူ၏၊ အချိန်ကိုလည်း လေးစား၏၊ တိကျမှု ကြိုက်သည်၊ အများသံဃာကိုလည်း သူ့လိုပင် ဖြစ်အောင် စံနမူနာ ပြ၏၊ ဆရာတော်က ယာဂုကို ခပ်မြန်မြန် သောက်၏၊ သံဃာများကိုလည်း ဇိမ်ခံ၍ ဆွမ်းစားမှု မျိုးကို မပြုလုပ်မိရန် သတိပေးတော်မူတတ်သည်၊ ခပ်သုတ်သုတ်စား၍ ခပ်မြန်မြန် သွားပြီးလျှင် ဆွမ်းစားကျောင်းကြီး အပေါ်ထပ်မှာ ဩဝါဒခံယူရန် စုကြရမြဲ ဖြစ်၏။

ထိုသို့ စုရာတွင် ဆရာတော်က နောက်ကျရိုးထုံးစံမရှိပေ၊ ဆရာတော်ကသာ အမြဲတမ်း ရှေ့ကရောက်၍ ကုလားထိုင်ပေါ်မှာ အသင့်ဖြစ်နေတတ်သည်၊ ယနေ့လည်း ထုံးစံအတိုင်း ရှေ့ကရောက်နှင့်ရန် ခပ်မြန်မြန်သွားရင်း, ခွေးကိုလည်း အခြောက်ခိုင်းရင်း ခလုတ်တိုက်ပြီး လဲခြင်း ဖြစ်တော့သည်။

ခွေးခြောက်သော ကိုယ်တော်က ပြေးလာ၍ ပွေ့ထူရတော့၏၊ ခန္ဓာကိုယ်ကြီးက ၀၀ ဖြစ်၍ သူ့အားနှင့် သူပင် သက်သာလှမည် မဟုတ်ပါချေ၊ သို့သော်လည်း ဆရာတော်ကား ဘာမျှ မဖြစ်သလို ဒဏ်ရာဒဏ်ချက်တို့ကို ဂရုမစိုက်အားဘဲ အချိန်မီရေး, နောက်မကျရေးကိုသာ စိတ်စောပြီး နေခဲ့သည်။

ယာဂုသောက်ပြီး, ဩဝါဒပေးပြီး, ဆွမ်းအနုမောဒနာပြုပြီး, ရေစက်ကို တိုတိုချပြီး, သံဃာတော်များ မေတ္တာပို့ပြီး, အခမ်းအနား ရုပ်သိမ်းပြီးမှ ဒဏ်ရာတို့ကို ကြည့်သောအခါ ဝဲဘက် ခြေသလုံးတွင် နှစ်နေရာလောက် ပဲ့နေသည်ကို တွေ့ရတော့၏၊ ဆေးထည့်၍ ကုသခဲ့ရာ တစ်လခွဲလောက် ကြာမှ ပျောက်တော့သည်။

## တစ်ချိန်တည်းမှာပင် အလုပ်နှစ်ခုပြီးအောင်

တစ်ခါတုန်းက ဩဝါဒပေးချိန်တွင် အမိန့်ရှိဖူး၏၊ နွေအကုန် မိုးအကူး ဝါဆိုဦးကာလဖြစ်၍ ညဥ့်တာ တိုတိုလာသည်၊ တဖြည်းဖြည်း အရုဏ်တက်ချိန်က စောစောလာသည်၊ ထို့ကြောင့် အရုဏ်တက်လျှင် တက်ချင်း ခေါက်နေကျ ဆွမ်းစားသံချောင်းကလည်း ရှေ့သို့ ရောက်ရောက်လာ၏၊ သံဃာများအတွက် ဆွမ်းစားသံချောင်းခေါက်လျှင် ဆရာတော်ကလည်း (သူတစ်ပါးတည်း စားနေကျဖြစ်ပေမယ့်) သံဃာများနှင့် အချိန်တူ စားလေ့ရှိသည်။

သို့မှသာ ဩဝါဒပေးချိန် စာချချိန်နှင့် ကိုက်ညီမည် မဟုတ်ပါလော၊ "ဆရာတော် ဆွမ်းစားမပြီးသေး၍, ဆရာတော် ဧည့်သည်နှင့်စကားပြောမပြီးသေး၍, ဆရာတော် ရေချိုးမပြီးသေး၍"စသော ဆင်ခြေဆင်လက်များ ဘယ်အခါမျှ မရှိချေ။

ထို့ကြောင့် သူ့လုပ်ငန်းစဥ်များကို အချိန်ကိုက်အောင် ပြင်ပြင်နေရသည်ဟု ဆို၏၊ ဆရာတော်က အမိန့်ရှိသည်၊ "ခါတိုင်းဆိုလျှင် ဘုန်းကြီးမှာ မနက်စောစော အိပ်ရာက ထ,· ကုဋီတက်, ပြီးတော့ မုတ်ဆိတ်ရိတ်၊ အဲဒီနောက် မျက်နှာသစ်, ပြီးမှ အရုဏ်ဆွမ်းစား၊ အဲလို သွားနေကျ, အခု အဲလို မဟုတ်တော့ဘူး၊ ဆွမ်းစားသံချောင်းက မုတ်ဆိတ်ရိတ်ချိန်မှာ လာလာခေါက်နေတယ်၊ ဒီတော့ ကမန်းကတန်းနဲ့ မျက်နှာသစ်လိုက်ရရော၊ ဒါကြောင့် ဘုန်းကြီးမှာ တစ်ချိန်တည်းနဲ့ အလုပ်နှစ်ခု ပြီးအောင် တစ်မျိုးပြောင်းပြီး စီစဥ်ထားရတယ်၊ ဘယ်လိုလဲ ဆိုတော့ "ကုဋီတက်ရင်း မုတ်ဆိတ် ရိတ်နေရတယ်" ဟူ၍ ဖြစ်သတည်း။

ဤနေရာ၌ ဆရာတော်က သူ့ဆရာ့ဆရာကြီးများထံမှ အချိန်လေးစားတတ်ပုံကို လက်ထပ်ရခဲ့ဟန်တူ၏၊ သူ့ဆရာကြီးများဖြစ်သော မြောင်းမြဆရာတော်ကြီး, အဘယာရာမဆရာတော်ကြီးတို့လည်း အချန်ကို လေးစားတော်မူကြသည်၊ ထိုဆရာတော်ကြီးများကလည်း "စာချတော့မည်"ဆိုလျှင် တပည့်များ၏ အလျှင် စာချမည့်နေရာသို့ ရောက်နေနှင့်တော်မူကြ၏၊ အချိန်ကျ၍ တပည့်တွေ မလာသေးလျှင် စောင့်နေသည် မဟုတ်ချေ၊ တစ်ပါးတည်းပင် ကုလားထိုင်ပေါ်မှ နေ၍ စာအဓိပ္ပာယ်ကို ပြောနေတတ်ကြသည် ဟူ၏။

## အိုလေ အလုပ်တွေ ပြီးလေ, ဘုန်းကြီးလေ...

၁၃၃၉ ခု နှစ်သစ်သို့ ကူးပြောင်းလာခဲ့ပြီ၊ ဆရာတော်၏ ကံဇာတာမှာ တစ်မျိုးဖြစ်၏၊ "အိုလေ, ကောင်းလေ"ဟု ဆိုရမည်လား မသိ၊ ကြည်ညိုသူ ဒါယကာ ဒါယိကာမများ, လေးစားသူပုဂ္ဂိုလ်များ ပို၍ ပို၍ များလာသည်၊ နိုင်ငံအတွင်း မြို့တကာ အရပ်တကာမှ ရောက်လာကြပြီး ဖူးမြော်ကြခြင်း, ကြည်ညိုကြခြင်း, ပြဿနာမေးခြင်း, အားကိုးခြင်း, ဆရာတော်၏ သာသနာပြုလုပ်ငန်းအား ထောက်ပံ့ခြင်းတို့ဖြင့် စုပြုံ အုံလာကြသည်။

ထိုအထဲတွင်... နိုင်ငံခြားသား (ကမ္ဘာလှည့်) ဧည့်သည်တို့ကလည်း မကြာ မကြာ ရောက်လာကြ၏၊ သူတို့နိုင်ငံတွေအထိ ဂုဏ်သတင်းက ထုံသင်းပျံ့နှံ့၍ လာရောက်လေ့လာကြခြင်း ဖြစ်သည်၊ သူတို့မှတ်တမ်းတွင် အထက်မြန်မာပြည်အတွက် (ပုဂံ ညောင်ဦး ပုပ္ပား မန္တလေး အရှင်ဇနကာဘိဝံသကျောင်းတိုက်)ဟူ၍ပင် လေ့လာဖို့ရန် စာရင်းတင်ထားကြလေသည်။

တကူးတက ရောက်အောင် လာခဲ့ကြသော နိုင်ငံခြားသားတို့က ဆရာတော့်ထံ ရောက်ခိုက်တွင် ဘာသာရေးပြဿနာများ မေးတတ်ကြ၏၊ ဆရာတော်ကလည်း စိတ်ရှည်ရှည်ထား၍ ဖြေကြားတတ်လေသည်၊ ထိုအခါ နိုင်ငံခြားသားတို့က အလွန်အားရ ကျေနပ်ကြလေ၏၊ အချို့က ဆရာတော့်စကားကို နားထောင်၍ မဝသလို ဖြစ်ကြဟန်တူသည်၊ သူတို့ထံမှ မေးစရာ မေးခွန်းကုန်နေ၍ မမေးတတ်သောအခါ "ဆရာတော် ပြောချင်ရာ ပြောပါဦး, နားထောင်ပါရစေ"ဟု ဆိုလာတတ်ကြ၏။

ထိုအခါ ဆရာတော်က ဗုဒ္ဓဘုရားရှင်၏မေတ္တာသဘောနှင့် ကမ္ဘာသူ ကမ္ဘာသား အချင်းချင်း တစ်ဦးပေါ် တစ်ဦး တရားမျှတစွာ ကျင့်သုံးရေးကို ပြောပြတတ်သည်၊ နောက်ဆုံးတွင် အရာခပ်သိမ်း မမြဲပုံ အနိစ္စသဘောကိုပါ အပို ဖြည့်စွက်၍ မိန့်မြွက်တတ်လေသည်။

ထိုအခါ သူတို့သည် ခေါင်းတဆတ်ဆတ်နှင့် ကျေနပ်သည့် အမူအရာတို့ဖြင့် ရွှင်ပျစွာ နားထောင်နေတတ်ကြလေသည်။

## ဖြေကြားလျှင် စိတ်ရှည်ရှည် ထားလေ့ရှိ

ဆရာတော့်ထံ ပြဿနာမေး၍ အဖြေကို နာကြားရသူ အများကပင် ကျေနပ်မှုကို ထုတ်ဆို ထုတ်ဆို သွားတတ်ကြလေသည်၊ တချို့က မေးလာသူကို အထင်သေးတတ်ကြ၏၊ မသိ၍ လာမေးသူကို အပေါ်စီး ယူချင်တတ်ကြသည်၊ အချို့က လေးလေးစားစား ပြန်၍ မဖြေချင်တတ်ကြ, အချို့ကမူ ထို့ထက်ပင် မထီမဲ့မြင် ပြုတတ်ကြသည်။

ဆရာတော် အရှင်ဇနကာဘိဝံသကား ထိုသို့မဟုတ်ချေ၊ စာချရာ၌လည်းကောင်း, ပြဿနာမေးလာ၍ ဖြေကြားရာ၌လည်းကောင်း စိတ်ရှည်ရှည်ထားလေ့ရှိသည်၊ ယခုမှ မဟုတ်ပေ၊ ခပ်ရွယ်ရွယ်ကပင် ဤမှုကို ကျင့်သုံးခဲ့သည် ဟူ၏။

မန္တလေးမြို့ တောင်ပြင် ဘုရားကြီးတိုက် တာရာမင်းကျောင်းဆရာတော် ဦးပညာဇောတာဘိဝံသ က ပြောပြဖူးသည်မှာ...

"ဘယ်သူတွေ ဘယ်လောက်ပဲ တတ်တယ်ပြောပြော, ဆရာတော် ဦးဇနကနှင့် ဆွေးနွေးရတာ အားအရဆုံး, အကျေနပ်ဆုံးပဲ၊ အလွန် ထိထိမိမိရှိတယ်၊ သူက မကြွားဘူး, မဝါဘူး, ဟိတ်ဟန် မဆောင်ဘူး, သူမပိုင်တဲ့ အချက်ဆိုရင်လဲ "နေပါဦး စာကြည့်လိုက်ပါဦးမယ်"လို့ ရိုးရိုးပဲ ပြောရှာတယ်"တဲ့။

ဆရာတော် ဦးပညာဇောတာဘိဝံသ သည် ဆရာတော် အရှင်ဇနကာဘိဝံသအောက် သိက္ခာနည်းနည်း ငယ်ပါ၏၊ တစ်ပါးနှင့်တစ်ပါး မေတ္တာထား၍ အလွန် ရင်းနှီးကြပါသည်၊ ယခုမှ တွေ့ကြရင်းနှီးကြခြင်းလည်း မဟုတ်ပါ။

## မေတ္တာသာ ပဓာနထားခြင်း

ဆရာတော် အရှင်ဇနကာဘိဝံသ မန္တလေး အနောက်ပြင် အဘယာရာမတိုက်မှာနေစဉ်ကပင် ကျွမ်းဝင်ခဲ့ကြသည် ဆို၏၊ အစပိုင်းတွင်ကား ဆရာတော် ဦးပညာဇောတက အဘယာရာမ ဆရာတော်ကြီးထံ စာမေးရန်, မရှင်းလင်းသည်ကို လျှောက်ထားရန် လာခြင်းဖြစ်သည်ဆို၏၊ ဆရာတော်ကြီးနှင့် တွေ့သည့်အခါ ဆရာတော်ကြီးအထံမှာ မေးမြန်းလျှောက်ထား၍ ပြန်သွားခဲ့သည်၊ နောက်ပိုင်းတွင်ကား အဘယာရာမဆရာတော်က အခြားသို့ ကြွနေခိုက် မတွေ့သောအခါ အရှင်ဇနကာဘိဝံသနှင့်ပင် တွေ့၍ ဆွေးနွေးမေး မြန်းခြင်းကိစ္စပြီးခဲ့သည် ဆို၏။

ဤနည်းဖြင့် ဂိုဏ်းခြင်းမတူသော်လည်း (ဂိုဏ်းကို ပဓာနမထားကြဘဲ) တစ်ပါးနှင့်တစ်ပါး မေတ္တာသာ ထားကြ၍ ဆက်ဆံလာခဲ့ကြသည်။

ထို့နောက် ဆရာတော် အရှင်ဇနကာဘိဝံသ ရေးသမျှ ကျမ်းစာတို့ကို ဆိုလျှင် ပုံမနှိပ်ရသေးခင် (လက်ရေးမူကြမ်းဘဝမှာပင်) ဆရာတော် ဦးပညာဇောတာဘိဝံသက ယူ၍ ယူ၍ ကြည့်တတ်၏၊ တပည့်များကိုလည်း ပို့ချပေးတတ်လေသည်။

ဆရာတော် အရှင် ဇနကာဘိဝံသကလည်း "အမှားတွေ့ရင် ပြင်ပါ၊ သတိပေးပါ"ဟူ၍ မှာလိုက်တတ်လေသည်၊ ဤနည်းအားဖြင့် ဆရာတော် အရှင်ဇနကာဘိဝံသ၏ စာကို ဆရာတော် ဦးပညာဇောတာဘိဝံသက အများတကာတို့ထက် အလျင်ဦးစွာ တွေ့ရ ဖတ်ရတတ်လေသည်။

နောက်ပိုင်း၌ ဆရာတော် ဦးပညာဇောတာဘိဝံသက အမိန့်ရှိပြန်သည်မှာ "အဋ္ဌသာလိနီဘာသာဋီကာကြီး ထွက်ပေါ်လာလို့ ဖတ်ရ လေ့လာရမှ ဆရာတော် အရှင်ဇနကာဘိဝံသကို ပို၍ လေးလေးနက်နက် တစ်ဆင့်တက်ပြီး ကြည်ညိုမိပြန်တယ်" ဟူ၍ ဖြစ်သတည်း။

ယခု ဝါဆိုဦးသို့ ရောက်လာပြီ၊ ရဟန်းသာမဏေ ၅၅၀ ကျော်, ဖိုးသူတော် ၂၀ ကျော် ရှိ၏၊ ပရိသတ်ပြန်၍ များလာသည်။

## အမေရိကန်သားနှင့်ငါးပါးသီလ

၁၃၃၉ ခုနှစ် ပထမဝါဆိုလဆန်း ၁၁ ရက်နေ့က ဖြစ်၏၊ အမေရိကန်မှ ကမ္ဘာလှည့်ခရီးသည် တစ်ယောက် ရောက်လာသည်၊ သူတို့ဆီအထိ ဆရာတော်၏ ဂုဏ်သတင်း ရနံ့က ထုံသင်းပျံ့ကာ လှိုင်သွား၍ ရနံ့အတိုင်း လိုက်လာခြင်း ဖြစ်၏၊ ဆရာတော်အား အလွန်လေးစားစွာ ပျပ်ဝပ်ရိုကျိုး ရှိခိုးသည်။

ထို့နောက် "ဆရာတော့်အထံမှာ သရဏဂုံယူပြီး ငါးပါးသီလ ဆောက်တည်လိုပါသည်"ဟု လျှောက်ထား၏၊ ထိုအခါ ဆရာတော် အရှင်ဇနကာဘိဝံသက သရဏဂုံအကြောင်း, ငါးပါးသီလအကြောင်းတို့ကို အကျယ်တဝင့် ရှင်းလင်းပြပြီးမှ သရဏဂုံ သီလ ဆောက်တည်စေတော်မူသည်။

ဒါယကာရော ဆရာပါ ကြည်နူးဝမ်းမြောက်နေကြဟန် လက္ခဏာ ရှိ၏၊ ဒါယကာအနေနှင့် ရွေခြားမြေခြား နိုင်ငံရပ်ခြား ဝေးကွာသောဒေသမှ တကူးတက လာရောက်၍ လေးစားအပ်သော ဆရာတော့်ထံမှ သရဏဂုံ သီလ ဆောက်တည်ခွင့်ရသောကြောင့် ဖြစ်သည်။

ဆရာတော်အနေနှင့်လည်း ဗုဒ္ဓဘာသာသို့ သက်သက်ဝင်ဝင် ယုံယုံကြည်ကြည်နှင့် လေးလေးစားစား ခံယူ ဆောက်တည်လာသော ဒါယကာ တစ်ဦးကို ရသောကြောင့် ဝမ်းမြောက်နေမိခြင်း ဖြစ်ပါလိမ့်မည်။

## အဘိဓမ္မာအဋ္ဌကထာတွေ အကုန်ပြီးစီး

အလွန်ပူပြင်းသော နွေကာလတွင် အချို့စာဝါများကို ခေတ္တ နားထားပြီး မိုးသံပေး၍ အေးလာသောအခါတွင်မှ ပြန်လည် ချပို့ပေးခဲ့သည်၊ အဘိဓမ္မာ ပဋ္ဌာန်းအဋ္ဌကထာတို့ကား မရပ်နားဘဲ မှန်မှန်ပို့ချရင်း ချွေးတလုံးလုံးဖြင့် ရေးသားလာခဲ့ရာ ၁၃၃၉ ခု ဝါခေါင်လဆန်း ၁၂ ရက်နေ့တွင် လုံး၀ ရေးသား၍ ပြီးစီးအောင်မြင်ခဲ့လေသည်။

ထို့ကြောင့် ရည်မှန်းသလောက် လုပ်ငန်းတွေ ထမြောက်သဖြင့် ကိုယ့်ကိုယ်ကိုပင် မယုံကြည်နိုင်စရာ ဖြစ်လာရ၏၊ တစ်ခါတစ်ခါ ဆရာတော်က အမိန့်ရှိသည်၊ "ငါ့မှာ ဘာတွေက ကူညီနေသလဲ မသိ, အလုပ်လုပ်တိုင်း ချပ်ခနဲ ချပ်ခနဲ အလိုက်သင့် အလျားသင့် အဆင်ပြေပြီး အောင်မြင် အောင်မြင် နေတယ်"ဟူ၍ပင် ဖြစ်သည်။

ထိုအခါ အချို့ပုဂ္ဂိုလ်တို့က ထင်ကြေးပေးကြ၏၊ "ဆရာတော်က သက်သတ်လွတ် စားပြီး အထက်နတ်ကြီးတွေရဲ့ အကူအညီကို သာသနာပြုရာတွင် အသုံးပြုဖို့ မျှော်ခဲ့သည် မဟုတ်ပါလား၊ အခု အဲဒီနတ်ကြီးတွေက ကူညနေတာမှန်းမှ မသိ"ဟူ၍ မယုံတစ်ဝက် ယုံတစ်ဝက်နှင့် ပြောတတ်ကြသည်၏။

ဆရာတော်ကမူ သာသနာပြုရာတွင် လုံလုံလောက်လောက် ဖြစ်ဖို့ရာ အထက်နတ်ကြီးတွေရဲ့ အကူအညီကို မျှော်မှန်းခဲ့သည်ကား မှန်ပါ၏။

သို့ရာတွင် မျှော်မှန်းရုံ မျှော်မှန်းနေသော ဆရာတော်ကား မဟုတ်ပါပေ၊ ကိုယ်တော်တိုင်လည်း နေ့စဉ်မှန်မှန် သီလ သမာဓိ အခြေခံဖြင့် လုံ့လသန်သန် ကြိုးစားနေခဲ့သည်။

## ဆရာတော်၏သဘောထား

ဤကိစ္စနှင့်ပတ်သက်၍ တစ်ခါတုန်းက ရန်ကုန်မြို့သို့ ကိစ္စတစ်ခုဖြင့် ရောက်နေစဉ်တွင် မနောမယိဒ္ဓိ ပညာခွင်သား ဒါယကာများနှင့်ဆရာတော် ဆုံရဖူးသည်၊ ဒါယကာများက လျှောက်ထားကြ၏။

"တပည့်တော်တို့ မနောမယိဒ္ဓိပညာဟာ ထေရဝါဒသာသနာကို ကိုယ့်နည်းကိုယ့်ဟန်နှင့်အားပေးချီးမြှောက် ပင့်ထောက်ကူညီနေတဲ့ ပညာပါဘုရား။

ဆရာတော်က သာသနာပြုသန်တဲ့ ပုဂ္ဂိုလ်ဆိုတော့ တပည့်တော်တို့ ပညာခွင်သားများရဲ့ အပေါ် ဆရာတော်ရဲ့ သဘောထားကို နာကြားပါရစေဘုရား" ဟူ၍ လျှောက်ထားကြဖူးသည်။

ထိုအခါ ဆရာတော်က ပြန်လည် အမိန့်ရှိ၏။

"ဘုန်းကြီးက ဒါတွေကို မယုံဘူးလို့ မဆိုပါဘူး၊ သူ့နည်းသူ့ဟန်နှင့် ရှိမှာပါပဲ၊ သာသနာကို ကူညီနေတယ်ဆိုတာနဲ့ ဘုန်းကြီးကတော့ ကျေနပ်နေပါပြီ။

ဘုန်းကြီးကိုယ်တိုင်ပေ့လေ၊ ဘယ်ဂိုဏ်းဝင်, ဘယ် အသင်းဝင်, ဘာညာနဲ့ မဟုတ်ပေမယ့် သာသနာပြုတဲ့ နေရာမှာ အကူအညီ အထောက်အပံ့ ဖြစ်စေချင်လို့ မေတ္တာပို့ခဲ့တာ, ပို့နေတာတော့ အမှန်ပါပဲ၊ သူတို့ကိုချည်း အားကိုးနေသလားဆိုတော့, ဒီလိုတော့ မဟုတ်ဘူး။

ကိုယ့်သီလ သမာဓိ ကိုယ့်အလုပ်ကိုတော့ မှန်မှန်ကြီး ကြိုးစားနေရတာပဲ၊ သူတို့က အဖြည့်အစွက်လောက်ပဲ တတ်နိုင်မှာကိုး၊ "ရော့-အင့်"နဲ့ သူတို့က ထုထုထည်ထည်ကြီးတွေ ချပေးမှာ မဟုတ်ဘူး။

## ပြုပြင်ရေးအတွက်ပါမျှော်မှန်း

ဘုန်းကြီးမှာလေ တစ်ခါတစ်ခါ ဘာမှန်းမသိဘူး၊ ကိုယ့်ကျောင်းတိုက်ထဲမှာ သံဃာတွေ အများကြီးရှိတယ်၊ ဝါတွင်းတုန်းက ၄၀၀ ကျော်, အခု ၃၅၀ လောက်ရှိမယ် ထင်တယ်၊ ဒီသံဃာတွေအတွက် စားသောက်ဖို့ ဆန် ဆီ ဆား ပဲ ဆိုတာတွေ, အခုဈေးနဲ့ ဘယ်ဖြစ်နိုင်မလဲ၊ ဘုန်းကြီးမတတ်နိုင်ဘူး၊ ဒါပေမယ့် လွယ်လွယ်ကူကူပဲ အလျှင်မီအောင် ဖြစ် ဖြစ်လာနေတယ်၊ အံ့သြစရာပဲ၊ အစောင့်အရှောက် ပုဂ္ဂိုလ်တွေက ဆန်အိတ်ကြီးတွေ ဆီပုံးကြီးတွေ လာချပေးသွားတာတော့ မဟုတ်ဘူးပေါ့၊ ဒါပေမယ့် လှူနိုင်တဲ့သူတွေကို လှူချင်အောင် သွားပြီး စိတ်ကို ညွှတ်ပေးနေသလားတော့ မပြောတတ်ဘူး၊ ဘုရားလက်ထက်

တုန်းကလည်း ဒီပုံစံမျိုးတွေတော့ ရှိတာပဲ၊ ဘုန်းကြီး ဖြစ်စေချင်တာက ဒီလာဘ်လာဘမျိုးလောက်သာ ဆိုလိုတာ မဟုတ်ပါဘူး၊ သာသနာပြုပြင်ရေး လုပ်ငန်းကြီးအတွက်ပါ အကူအညီ ဖြစ်စေချင်တာ။

ဒီတော့ ဒါယကာတို့က ကိုယ့်ပညာစွမ်းနဲ့ သာသနာတော်ကို ကူညီတယ်ဆိုတာ ဘုန်းကြီး ကျေနပ်ပါတယ်၊ ကူညီနိုင်အောင် သီလလုံခြုံကြပါ၊ အနည်းဆုံး ငါးပါးသီလလောက်တော့ လုံကြပါစေ။

ငါးပါးသီလဆိုတာ (အရိယကန္တသီလ)လို့ ခေါ်တယ်၊ အရိယာပုဂ္ဂိုလ်တွေ မြတ်နိုးနှစ်သက်တဲ့သီလလို့ အပွာယ်ရတာပေါ့၊ ဒါမှ ဒကာတို့ အသုံးပြုနေတဲ့ သစ္စာတန်ခိုးတွေ, အဓိဋ္ဌာန်ချက်တွေ ပိုပြီး ထက်မြက်မယ်"စသည်ဖြင့် မိန့်တော်မူဖူးသည်။

ယခုအခါတွင်ကား မည်သည့်အကြောင်းကြောင့် ဖြစ်စေ, ဆရာတော်မှာကား လုပ်ငန်းတွေ တစ်ခုပြီး တစ်ခု ပြီးစီး, ကျမ်းစာတွေ တစ်ဆူပြီး တစ်ဆူ ပြီးမြောက်နေသည်ကား အမှန်ပင် ဖြစ်၏။

ရေးသားဖွဲ့ဆိုခဲ့သော အဘိဓမ္မာပါဠိတော်ကြီးများမှာ...

၁။ ဓမ္မသင်္ဂဏီ

၂။ ဝိဘင်း

၃။ ဓာတုကထာ

၄။ ပုဂ္ဂလပညတ်

၅။ ကထာဝတ္ထု

၆။ ယမိုက်

၇။ ပဋ္ဌာန်းဟူ၍ အမျိုးအစား ၇ မျိုး ရှိခဲ့သည်။

ထိုတွင် ဓမ္မသင်္ဂဏီပါဠိတော်ကို "အဋ္ဌသာလိနီ အဋ္ဌကထာ"ဟူ၍ အမည်တပ်ကာ အရှင်မဟာဗုဒ္ဓဃောသက မဂဓဘာသာဖြင့် ဖွင့်ဆိုထားတော်မူခဲ့၏၊ ယင်းကို ဆရာတော် အရှင်ဇနကာဘိဝံသက... "အဋ္ဌသာလိနီဘာသာဋီကာ"ဟူ၍ အမည်ပေးကာ တိုင်းရင်းမြန်မာဘာသာဖြင့် ဖွင့်ဆိုတော်မူသည်။

ဝိဘင်းပါဠိတော်ကိုကား "သမ္မောဟဝိနောဒနီ အဋ္ဌကထာ"ဟူသော အမည်ဖြင့် ဖွင့်ဆိုတော်မူခဲ့သည်၊ ယင်းကို ဆရာတော်က တစ်ဖန် "သမ္မောဟဝိနောဒနီဘာသာဋီကာ"အမည်ဖြင့် ဖွင့်ဆိုတော်မူပြန်သည်။

ဓာတုကထာ စသော ပါဠိတော် ငါးမျိုးကို "ပဉ္စပကရဏအဋ္ဌကထာ (ပဉ္စပကရိဏ်အဋ္ဌကထာ) နာမည်ဖြင့် အရှင်မဟာဗုဒ္ဓဃောသက ဖွင့်ခဲ့သည်ကို ဆရာတော်က "ပဉ္စပကရဏဘာသာဋီကာ"ဟူ၍ အမည်ပေးကာ ဖွင့်ဆိုတော်မူခဲ့ပါသည်။

ယခုအခါ ဆိုခဲ့ပြီး အဘိဓမ္မာပါဠိတော် ၇ မျိုးလုံး၏ အဖွင့်အဋ္ဌကထာများကို တိုင်းရင်းမြန်မာဘာသာဖြင့် အားလုံး ဖွင့်ဆို ရေးသားပြီးစီး အောင်မြင်ခဲ့လေပြီ၊ စာအုပ်ကြီးများမှာ ထူထဲ ခိုင်ခံ့စွာ ထွက်ပေါ်လာကြသဖြင့် ကြည်ညိုစရာကြီးတွေ ကောင်းလှပါတော့သည်။

## အသက်ရှစ်ဆယ်မှာ ကျမ်းတွေအကုန်ပြီးမယ်

ယခုအခါ ဝိနည်းငါးကျမ်းဆိုင်ရာ အဋ္ဌကထာတွေ အကုန်လုံးကို မြန်မာဘာသာအားဖြင့် ဖွင့်ဆိုရေးသားပြီးပြီ၊ အဘိဓမ္မာခုနစ်ကျမ်းဆိုင်ရာ အဋ္ဌကထာများလည်း ဖွင့်ဆိုရေးသားပြီးပြီ၊ သုတ် သုံးကျမ်းတွင် သုတ်သီလက္ခန်ပါဠိတော်၏အဖွင့် ရေးသားပြီးပြီ၊ သုတ်မဟာဝါပါဠိတော်အဖွင့်ကို ယခု ပို့ချရင်း ရေးသားနေဆဲ ဖြစ်၏၊ ပြီးတော့မည်၊ တန်ဆောင်မုန်း, နတ်တော်လောက်ဆိုရင် ပြီးလိမ့်မည်ဟု ခန့်မှန်းရသည်။

ထို့နောက် သုတ်ပါထေယျ တစ်ကျမ်းသာ ကျန်တော့၏၊ ထိုကျမ်းကိုလည်း ဆက်လက်ပို့ချမည်သာ ဖြစ်သည်၊ ဆက်လက်ပို့ချပါလျှင် တစ်နှစ်, တစ်နှစ်ခွဲလောက် ကြာပါက ကျမ်းတစ်ဆူ ပြီးစီးမြဲ ဖြစ်၏။

ထို့ကြောင့် ဆရာတော်က အမိန့်ရှိသည်၊ ...

"ယခု ဘုန်းကြီးရေးလာခဲ့တာ အောက်ခြေမူလတန်း ပါဠိသိက္ခာ, သဒ္ဒါကျဉ်းတို့လို လွယ်လွယ်က စပြီး, အလယ်အလတ်စား အမြင့်စား အရင့်စား ယခုလို အထက်တန်းစား အဘိဓမ္မာ အဋ္ဌကထာကြီးများအထိ ပြီးစီးခဲ့တယ်၊ သုတ်မဟာဝါလဲ ကုန်တော့မယ်၊ နောက် သုတ်ပါထေယျကို ဆက်လက် ပို့ချရင် အလွန်ဆုံး တစ်နှစ်ကျော်ကျော်ပေါ့၊ ပြီးမှာပဲ။

ယခု ဘုန်းကြီး အသက် ၇၈ နှစ်, အားလုံး ကျမ်းစာတွေ အသက် ၈၀ ဆိုရင် အကုန် ပြီးမယ်၊ ရေးသမျှအားလုံး ကျမ်းစာအုပ်တွေ ဖြစ်သည်တိုင်ရုံတော့ အသက် ရှည်ချင်ပါသေးတယ်"ဟူ၍ ဖြစ်၏။

# ကံကောင်း၍ ထမြောက်အောင်မြင်မှုများ

## မမျှော်လင့်ဘဲ အထမြောက်ခဲ့

၁၃၃၉ ခုနှစ် ဝါခေါင်လဆန်း ၁၃ ရက်နေ့က ဖြစ်၏၊ ဆရာတော်သည် နံနက်ခင်းဩဝါဒပေးချိန်၌ ကိစ္စတစ်ခုခုကို အကြောင်းပြု၍ ဟောမြဲ ပြောမြဲ ဖြစ်သည်၊ ထို့ကြောင့် ကြားနေကျ နာနေကျဖြစ်နေသော တပည့်တို့မှာ ဆရာတော် စကားစလိုက်လျှင်ပင် "ယနေ့ ဘာအကြောင်းအရာကို ပြောတော့မည်" ဟု ခန့်မှန်းနိုင်ကြ၏။

ယနေ့လည်း ရေးသားပြီးစီးခဲ့သော ဘာသာဋီကာ ကျမ်းစာကြီးများနှင့် ပတ်သက်၍ မိန့်မြွက်နေသည်၊ ကျမ်းစာကြီးများကို ရေးသားရာ၌ မျှော်မှန်းခဲ့သည်ထက် ပိုမို ထမြောက် အောင်မြင်နေခဲ့၏၊ ထို့ကြောင့်..."ဘုန်းကြီးမှာ ကံထောက်မလို့ မျှော်မှန်းတာထက် ပိုပြီး အထမြောက်ခဲ့တာတွေ ရှိတယ်၊ ဥပမာ...ပခုက္ကူတိုက်ကြီး၌ စာချဖြစ်တာတို့, ဒါဆိုရင် လုံးဝ မမျှော်မှန်းခဲ့တာ၊ ဘာလို့လဲဆိုတော့ ဂိုဏ်းမတူတာလဲ တစ်ကြောင်း, ငယ်သေးတာလဲ တစ်ကြောင်းမို့ပါပဲ၊ ပြီးတော့ ပထမကျော် အောင်မြင်တာတို့, အဲဒီ စာမေးပွဲဆိုလဲ သိပ် အဓိကထားခဲ့တာမဟုတ်ဘူး၊ သက်ျသီဟ စာချတန်း ဖြေဖို့သာ ပခုက္ကူကနေ မန္တလေးကို ပြန်လာတာ၊ ကြုံလာတာနဲ့ အများကလဲ တိုက်တွန်းတာနဲ့ ဝင်ဖြေလိုက်တာ၊ ခပ်လွယ်လွယ်နဲ့ အောင်လာတာပဲ။

ဒီ (အမရပူရ မဟာဂန္ဓာရုံ)ကို လာနေရာမှာလဲ သံဃာ အစိတ် သုံးဆယ်လောက်နဲ့ ခပ်မြုပ်မြုပ် ခပ်ကုပ်ကုပ် နေမယ်လို့ စိတ်ကူးခဲ့တာ၊ ဟော-အခု မျှော်မှန်းတာထက် အဆများစွာ သံဃာတွေ စုပြုံရောက်လာနေကြတယ်၊ အခုဆို သံဃာ ၅၀၀ ကျော်၊ ကျမ်းစာရေးသားတဲ့ နေရာမှာလဲ သင်ရိုးအဋ္ဌကထာကြီး ၃ ကျမ်းလောက်သာ အဓိပ္ပာယ်ဖွင့်ဆိုမယ်လို့ ရည်ရွယ်ခဲ့တာ၊ ဟော-အခုတော့ အဲဒါတွေမက ဝိနည်းငါးကျမ်း, သုတ် အဘိဓမ္မာကျမ်းတွေပါ အကုန်လုံးလိုလို ပြီးစီးထမြောက်အောင် ရေးသားနိုင်နေခဲ့တယ်၊ ဒါတွေဟာ မျှော်မှန်းတာထက် ပိုပြီး အောင်မြင်နေခဲ့တာတွေပဲ။

## ဆရာ့ဆရာကြီးများ မရေးဖြစ်ခဲ့

ဒုတိယကမ္ဘာစစ်ဦးပိုင်းက ဒီ အမရပူရ မဟာဂန္ဓာရုံကို ဘုန်းကြီးရောက်လာတော့ မန္တလေးက ပါလာတဲ့ တပည့်နှစ်ပါးလောက်ကို စာချပေးခဲ့တယ်၊ အဋ္ဌသာလိနီကို မူလဋီကာနဲ့တွဲပြီး ချပေးခဲ့ပါတယ်၊ ချလို့ သမ္မောလားရောက်တော့ စာဆိုတဲ့သူက ရပ်ချင်တယ်တဲ့၊ ဘာပြုလို့တုံးမေးတော့ "ပျင်းလို့"တဲ့၊ အင်း-ဖြစ်ပုံ ဖြစ်ပုံ။

ငါဖြင့် ကြိုးစားပမ်းစား ချပေးရတာ, သူတို့က ပျင်းတယ်တဲ့၊ အဲဒီကတည်းက ဘုန်းကြီးက ဒီသင်ရိုးအဋ္ဌကထာကြီး ၃ ကျမ်းကို ရေးချင်နေတာ၊ ဘာလို့လဲဆိုတော့ နောင်တစ်ခေတ်မှာ ဒီအဋ္ဌကထာကြီးတွေကို ဆုံးခန်းတိုင်အောင် သင်ချင်တဲ့သူ နည်းကုန်တော့မှာမို့ပါပဲ၊ သင်ချင်တဲ့သူ အနည်းအပါး ရှိရင်လဲ အမှီအခို ဖြစ်ရစ်အောင်လို့ပါ။

ပါရာဇိကဏ်အဋ္ဌကထာကြီးကိုဆိုရင် ချောင်းဦးဓမ္မာရုံဆရာတော်က မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးအား နိဿယရေးသားပါရန် လျှောက်ဖူးတယ်၊ မရေးဖြစ်ခဲ့ဘူး၊ တစ်ခါ ဆရာတော်ကြီးရဲ့ တပည့် စာတတ်ပေတတ်တွေလဲ များစွာ ထွန်းကားခဲ့တာပဲ၊ သူတို့လဲ မရေးဖြစ်ခဲ့ကြဘူး။

အဲဒီတုန်းက မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးက ဒီပါရာဇိကဏ်အဋ္ဌကထာကြီးများကို ချပို့လို့ မြောင်းမြဆရာတော်လောင်းက စာဆိုလို့၊ အခြားတပည့်ကြီးတွေများစွာက စာတက် စာလိုက်ကြလို့၊ အလွန်အားရဖို့ ကောင်းလှတယ်။

အဲဒီအချိန်မှာ တို့က ကျောင်းသားငယ်ငယ် ရှိပါသေးတယ်၊ ဆရာသမားများ စာတက်သွားကြပြီဆိုရင် တို့က အခွင့်ကောင်းရပြီ၊ တခြားအဖော်တွေနဲ့

သိမ်ကြီးထဲမှာ သက်န်းစုတ်ကို ရစ်ပတ်လုံးထုပ်ပြီး ဘောလုံးလုပ် ကန်နေတဲ့အချိန်, ဒါနေ့တိုင်းပဲ၊ နောက်တော့ တိုက်အုပ်ကြီးက လာဖမ်းလို့ မိတော့ တို့တစ်တွေ အကုန် ဒဏ်ထမ်းကြရတာ မှတ်မိနေသေးတယ်။

အဲလို ဆရာ့ဆရာသမားကြီးများ မရေးသားဖြစ်ခဲ့တဲ့ ကျမ်းစာတွေကို ဘုန်းကြီးလက်ထက်ကျတော့ (မင်းတို့တစ်တွေရဲ့ အကူအညီနှင့်) ရေးသားလာခဲ့တာ မျှော်မှန်းသည်ထက်ပင် ပိုမို အောင်မြင်မှုတွေ ရနေတော့တယ်၊ ဒါဟာအလွန်ကံကောင်းလွန်းလို့ပဲ။

## အရင်းများလျက် အမြတ်နည်းနည်းရ

ဤသို့ လုပ်ငန်းကိစ္စတွေ ပြီးစီးအောင်မြင်မှုနှင့် ပတ်သက်ပြီး ဆရာတော်၏ ငယ်ဆရာ ကျေးဇူးရှင် မြောင်းမြဆရာတော်ဘုရားကြီးက ဤသို့ မှတ်ချက်ချတော်မူ၏။

"တောင်မြို့ဘုန်းကြီးက ရှေးအတိတ်ကံတွေ ပါတယ်၊ ဒါကြောင့် လုပ်ငန်းကိစ္စတွေ ပြီးတာ"ဟူ၍ ဖြစ်သတည်း။

ထိုမိန့်ဆိုချက်ကို ကြားသောအခါ တပည့်ကြီး အရှင်ဇနကာဘိဝံသက ဤသို့ ပြန်၍ သုံးသပ်သည်၊ ယင်းမှာ...

"ရှေးအတိတ်ကံတွေထက် ပစ္စုပ္ပန်ကံတွေက ပိုပြီး များမယ်ထင်တယ်"ဟူ၍ ဖြစ်သတည်း။

ဟုတ်ပါသည်၊ ဤစကားကို ဆရာတော် အရှင်ဇနကာဘိဝံသက ခံစားချက်နှင့် ဆိုဟန်တူပါသည်၊ ဤမျှလောက် ပြီးစီးဖို့အရေး မည်မျှလောက် ကြိုးစားရသည်ကို, မည်မျှလောက် ပစ္စုပ္ပန်ကံ အရင်းအနှီးတွေ မြှုပ်နှံထားရသည်ကို ဆရာတော်ကိုယ်တိုင်မှပင် အပြည့်အဝ သိနိုင်ပါလိမ့်မည်။

ဤမျှ များပြားသော သင်ရိုးပိဋကတ် အဋ္ဌကထာ အားလုံး၏ ဘာသာဋီကာဖွင့်ဆိုရေးသားမှုလုပ်ငန်းကြီးမှာ ဆရာတော် အရှင်ဇနကာဘိဝံသလိုပုဂ္ဂိုလ် ၁၀ ပါးလောက် ဝိုင်း၍ လုပ်မှ ပြီးစီးရမည့် လုပ်ငန်းကြီး ဖြစ်သည်။

ဤလုပ်ငန်းကြီးကို ဆရာတော် အရှင်ဇနကာဘိဝံသ တစ်ပါးတည်းဖြင့် ပြီးစီးအောင် လုပ်ဆောင်သွားသည်ကို ထောက်ဆသောအားဖြင့် မည်မျှလောက် ပစ္စုပ္ပန်ကံ အရင်းအနှီးတွေ မြှုပ်နှံထားသည်ကို ခန့်မှန်းနိုင်ပါတော့၏။

**ဆရာတော် အရှင်ဇနကာဘိဝံသမှာ ဤမျှလောက်ပင် အရင်းအနှီးတွေ များစွာ မြှုပ်နှံရင်းနှီးထားသော်လည်း ရရှိသော အမြတ်အစွန်းမှာကား နည်းနည်းကလေးမျှသာတည်း။**

## ကျမ်းစာများရေးခြင်းအကြောင်း

"ပထမဦးဆုံး ဘုန်းကြီးကျမ်းစာစပြီး ရေးဖြစ်တာကတော့ မန္တလေး အဘယာရာမတိုက်မှာ ဘုန်းကြီးက ဋီကာကျော်ချပေးတယ်၊ စာလိုက် ကိုယ်တော်လေးတွေကို မေးကြည့်, လေ့လာကြည့်တော့ သိပ်ပြီး မမှတ်မိကြဘူး၊ သူတို့ မှတ်စုစာအုပ်ကလေးတွေ လှန်လှောကြည့်ပြန်တော့လဲ အမှားမှား အယွင်းယွင်းနဲ့ မှတ်သားထားကြတာ တွေ့ရတယ်၊ ဒါနဲ့ "ကျမ်းစာရေးပေးမှ ဖြစ်တော့မှာပဲ"လို့ စိတ်ထဲ ဆုံးဖြတ်ခဲ့မိတယ်။

အဲဒီနောက် "လက်သန်းအဋ္ဌကထာ"လို့ခေါ်တဲ့ သင်္ဂြိုဟ်ကျမ်းကလေးကို အထည်ကိုယ်ထားပြီး သူ့ရဲ့ အဖွင့်ဖြစ်တဲ့ အဘိဓမ္မာအဋ္ဌကထာများနဲ့ မွမ်းမံပြီးတော့ "သင်္ဂြိုဟ်ဘာသာဋီကာ"ဆိုတာ အသက် ၃၀ အရွယ်လောက်မှာ စတင်ပြီး ရေးတော့တာပဲ၊ အဲဒီကနေ တစ်စတစ်စနှင့် ရေးလာလိုက်တာ ဟောအခု သုတ် ဝိနည်း အဘိဓမ္မာ အကုန်လုံးလိုလို ရေးသား ဖွင့်ဆိုပြီး နေခဲ့တော့တယ်၊ ဒါဟာဆိုရင် မျှော်မှန်းတာထက် ပိုပြီး အောင်မြင်နေခြင်းပဲ၊ ဘုန်းကြီးတွက်ထားတယ်၊ အသက် ၈၀ ဆိုရင် ကျမ်းစာတွေ အကုန်လုံး ရေးသားပြီးရမယ်"လို့။

**မှတ်ချက်။** ။ထိုသို့ မိန့်ဆိုစဉ်က ဆရာတော့် သက်တော်မှာ ၇၈ နှစ်ထဲ၌ ဖြစ်၏။

## ပိဋကတ်သုံးပုံလုံးပြီးတော့မှာပဲ

"အခု အဘိဓမ္မာဆိုင်ရာ အဋ္ဌကထာတွေ (မူလဋီကာရော) အကုန်လုံး ပြီးကုန်ပြီ၊ ဝိနည်းငါးကျမ်း အဋ္ဌကထာတွေလဲ အားလုံး ပြီးစီးခဲ့ပြီ၊ သုတ္တန်ပိုင်းဆိုင်ရာ သုတ်သီလက္ခန်အဋ္ဌကထာတွေလဲ ပြီးခဲ့ပြီ။

အခုပို့ချနေဆဲဖြစ်တဲ့ သုတ်မဟာဝါလဲ မကြာခင်ပြီးတော့မှာပဲ၊ အဲ သုတ္တန်ထဲက သုတ်ပါထေယျ တစ်အုပ်ပဲ ကျန်တော့တယ်၊ ဒါလဲ နောက် ၂ နှစ် ကောင်းကောင်းလောက်ဆိုရင် ပြီးမှာပဲ။

ဒါကြောင့် ဘုန်းကြီး အသက် ၈၀ ဆိုရင် ဝိနည်း သုတ္တန် အဘိဓမ္မာ သုံးဖြာလုံးက အဋ္ဌကထာတွေ အကုန်လုံးကို အမိမြန်မာဘာသာနှင့် ဖွင့်ဆိုလို့ ပြီးမှာ သေချာတယ်၊ အဲလို ဘာသာဋီကာအဖြစ်နှင့် ကျမ်းစာတွေ ရေးပြီးလို့ အသက် ၈၀ ပြည့်ပြီဆိုရင်လဲ ဘုန်းကြီးတစ်ပါးတည်း တရားနဲ့ နေတော့မယ်။

ကျမ်းစာရေးသားခြင်း, စာပေပို့ချခြင်း, တပည့်ပရိသတ်တွေ အုပ်ချုပ်ခြင်းစတဲ့ အလုပ်တွေကို ရုပ်သိမ်းပြီး တပည့်ကြီးတွေလက် လွှဲအပ်ပြီး (တောင်သမန်ကျောက်တော်ကြီးဘုရားဝင်းတို့လို) အေးဆေး ဆိတ်ငြိမ်ချမ်းမြေ့တဲ့ နေရာမျိုးမှာ ဘုန်းကြီးတစ်ပါးတည်း ကိုယ့်တရားနဲ့ ကိုယ်အချိန်များများ ယူပြီး နေတော့မယ်လို့ စိတ်ကူးထားတယ်"။

ဤသို့ စသည်ဖြင့် ဆရာတော်က ကျမ်းစာရေးသားခဲ့သော မိမိဘဝတစ်လျှောက်လုံးကို နောက်ပြန်လှည့်ကြည့်၍ မြင်ယောင်နေရင်း, ကျမ်းစာတွေ ပြီးစီးမည့် အချိန်ကိုလည်း ရှေ့ကျော်မှန်းရင်း တသီတတန်းချည်း မိန့်မြွက်တော်မူနေခဲ့သည်။

# နိကာယ်ငါးရပ် ပိဋကတ်ပင်လယ် ရေပြင်ကျယ်

## ပညာရေး လွယ်ကူစေချင်

ဆရာတော် အရှင်ဇနကာဘိဝံသသည် မိမိကိုယ်တိုင် နိကာယ်ငါးရပ် ပိဋကတ်ပင်လယ် ရေပြင်ကျယ်ကြီးကို အန္တရာယ်ထွင်းဖောက် တစ်ဖက်ကမ်းသို့ ရောက်အောင် ကူးမြောက်ပြီးသောအခါ မိမိဖြတ်သန်းလာခဲ့ရသော ခရီးတာကြီးကို ပြန်လည်ကြည့်ရှုမိ၏၊ သုံးသပ်မိ၏၊ တစ်မျှော်တစ်ခေါ်ကြီး ရှည်လျားလှဘိခြင်း။

အသက် ၁၃ နှစ်သားအရွယ်မှ ၂၃ နှစ်သားအရွယ်အထိ ၁၀ နှစ်တိုင်တိုင် စာဆိုခဲ့ရ၏၊ ပညာဗဟုသုတများ ဆည်းပူးခဲ့ရ၏၊ သုခ ဒုက္ခ ဘဝ မုန်တိုင်း လှိုင်းတံပိုးတို့နှင့် ကြုံခဲ့ ဆုံခဲ့ ရ၏၊ ကန္တာရခရီးလမ်း ကြမ်းတမ်းလှဘိခြင်း, ပိဋကတ်ပင်လယ် ဤမှာဘက်ကမ်းမှ ဟိုမှာဘက်ကမ်းသို့ ကူးဖို့ မလွယ်ခြင်း, ငါး လိပ် မကန်းတို့ဖြင့် ဘေးဘျမ်းထူလှခြင်း, အခက်အခဲမျိုးစုံတို့ဖြင့် အုံလျက်ပြွမ်းလျက်ရှိခြင်းတို့ကို တွေ့ရသည်၊ စာသင်သားတိုင်း တစ်ဖက်ကမ်းသို့ ရောက်ဖို့ မလွယ်ကူ။

မိမိသည်ကား ကံကောင်းထောက်မ ဆရာအပေါင်း၏ ချီးမြှောက်မှုကိုရသဖြင့် တစ်ဖက်ကမ်းသို့ ပေါက်အောင် ရောက်ခဲ့ရ၏၊ များစွာသော စာသင်သားအပေါင်းတို့ကား မိမိကဲ့သို့ ဟုတ်ချင်မှ ဟုတ်ပေမည်၊ အကြောင်းညီညွတ်ဖို့ မလွယ်ကူ။

ဤအရေးကို တွေးပြီးလျှင် "စာသင်သားတိုင်း ပိဋကတ်ပင်လယ် ရေပြင်ကျယ်ကြီးကို အလွယ်တကူနှင့် ကူးမြောက်နိုင်ရန် ဘယ်သို့ ဖန်အုံနည်း"ဟု အမြဲတမ်း ကြံစည်တွေးတောနေခဲ့သည်၊ အမြဲတမ်း နည်းလမ်း ရှာဖွေနေခဲ့သည်၊

ထိုအခါ ဉာဏ်တွင် ထင်လာသည်ကား "အစီအစဉ်တကျ အောက်ခြေမှ စ၍ (တောင်တက်လှေကားထစ်များသဖွယ်) အဆင့်ဆင့် မြင့်တက်သွားသော ပညာသင်ကြားရေး ဥပဒေသကို မူချရမည်" ဟူ၍ ဖြစ်၏။

## နမူနာပြ ရွှေကျင်က စရမယ်

ယခုအခါ တစ်ကျောင်းတစ်ဂါထာ, တစ်ရွာ တစ်ပုဒ်ဆန်း ကိုယ့်နည်းနှင့်ကိုယ် သင်တန်းပေးနေကြသည်၊ အောင်မြင်မှု ရှိကြသလို, မအောင်မမြင် ခရီးမတွင်သည်လည်း ရှိကြ၏၊ ထို့ကြောင့် အောင်မြင်သော နည်းကောင်းတို့ကို စု၍ ပေါင်း၍ ညှိနှိုင်း၍ တစ်နိုင်ငံလုံးမှာ တစ်မူတည်း ရှိစေရမည်။

ထိုမူဖြင့်သာ စနစ်တကျ သင်ပေးရပါလျှင် အဘယ်မှာလျှင် စာသင်သားတိုင်း မအောင်မြင်ဘဲ ရှိချေတုံအံ့နည်း၊ အောင်မြင်ပြီးမြောက် ခရီးရောက်၍ ကူးမြောက်နိုင်သော နည်းနာနယကို အများက လက်ခံချင်လာအောင် ဦးစွာပထမ ရွှေကျင်ဂိုဏ်းကြီးက စတင်၍ နမူနာပြအဖြစ် သင်ကြားပြရမည်၊ အောင်မြင်လာသောအခါ အများက လက်ခံလာလိမ့်မည်၊ ထိုအခါ ရဟန်းတော်များ၏ ပရိယတ္တိလောကကြီး တစ်ခုလုံး စာသင်နည်း တစ်မူတည်း ဖြစ်လာမည်၊ ဤသို့ တွေးတော စဉ်းစားချက်များ အရ ၁၂၉၄ ခုနှစ် စတုတ္ထအကြိမ် ရွှေကျင်ဂိုဏ်းလုံးကျွတ် အစည်းအဝေးကြီးတွင် အရှင်ဇနကာဘိဝံသက ဤအကြောင်းအရာများကို တင်ပြ လျှောက်ထားခဲ့သည်။

ထိုအခါ ထိုအစည်းအဝေးကြီးက "စည်းမျဉ်းနှင့်တကွ စီမံကိန်း မူချပြပါ"ဆိုသဖြင့် အရှင်ဇနကာဘိဝံသ ဦးဆောင်လျက် ဝန်ဆောင်သံဃာ့အဖွဲ့ ဖွဲ့ပြီးလျှင် စီမံကိန်းမူများ ရေးသား၍ စာအုပ်ကလေးတစ်ခု ရိုက်နှိပ်ခဲ့ဖူး၏၊ နောက်တစ်ခါ ၃ နှစ်တစ်ကြိမ် စည်းဝေးသော ရန်ကုန်မြို့မကျောင်းကြီး၌ ရွှေကျင်ဂိုဏ်းလုံးကျွတ် အစည်းအဝေးတွင် တင်ပြရာ "ကောင်းတော့ ကောင်းပါရဲ့, ကိုယ်တော်တို့ ဝန်ဆောင် သံဃာ့အဖွဲ့ စာချဘုန်းကြီးများက စပြီး နမူနာ သင်ကြားပြပါ"ဟု တာဝန်ကို မျက်နှာလွှဲလိုက်ကြသဖြင့် အားလုံး လေထဲမှာ ပျောက်ကွယ်ကုန်ကြရတော့သည်၊ နောက်တစ်ကြိမ်လည်း တစ်ဂိုဏ်းလုံးနှင့် ကြိုးစား၍ မအောင်မြင်ခဲ့သော စာသင်နည်းကို အဘယာရာမ တစ်တိုက်တည်းအနေဖြင့် လုပ်ငန်းစဖို့ရန် ကြိုးစားကြည့်သေးသည်၊ မအောင်မြင်ပြန်ပေ၊ နောက်တစ်ဖန် မော်ဘီ အစည်းအဝေးကြီးတွင် စာသင်နည်းစနစ်ကို တစ်နိုင်ငံလုံး အနေဖြင့် ပြုပြင်နိုင်ဖို့ရန် ရေးဆွဲ တင်ပြခဲ့ပြန်သည်၊ မညီ၍ အတည်မဖြစ်ခဲ့ပြန်ချေ၊ အရည်ဖြစ်၍ ပျောက်ကွယ်သွားပြန်သည်။

## တစ်ပါးတည်း ကြိုးစားနဲ့

ဤသို့လျှင် ဆရာတော် အရှင်ဇနကာဘိဝံသမှာ စေတနာထားတိုင်း အောင်မြင်သည် မဟုတ်ပါ၊ ကြိုးစားတိုင်း ထမြောက်သည် မရှိပါ၊ အများနှင့် စုပေါင်း၍ အလုပ်လုပ်တိုင်း ချောမောသည် မတွေ့ရပါ၊ သူ့ကြမ္မာပေတကား၊ သို့ရာတွင် သူ့စေတနာကား အလွန်သန့်ပါသည်၊ သူ့စေတနာကား အလွန်ဖြူပါသည်၊ အများအပေါ်မှာ ကြီးပွားစေလိုသော ဆန္ဒပြင်းပြမှု ဖြစ်ပါသည်။

ဤသို့ သန့်သော ဖြူသောစေတနာ, မွန်မြတ်သောဆန္ဒထားရှိ မှန်ပါလျက် အောင်မြင်မှု မထွက်သောအခါ အရှင်ဇနကာဘိဝံသသည် နောက်ဆုတ်သွားပါသလော၊ စိတ်ကုန်ခန်း၍ နွမ်းရိခွေယိုင်ကာ လက်မှိုင်ချ၍ နေပါသလော။

ဤသို့ကား မထင်လိုက်ပါနှင့်, မည်သည့်အခါမျှ နောက်ဆုတ်လေ့ မရှိပါ၊ မည်သည့်အခါမျှ အလျှော့ပေးလေ့ မရှိပါ၊ "သည်နည်းနှင့် မအောင်မြင်လျှင် ဟိုနည်းနှင့် အလုပ်လုပ်မည်"ဟူသော စိတ်ဓာတ်မျိုး ဖြစ်ပါ၏၊ သူ့ကိုယ်သူလည်း ဘုရားသာသနာတော်အတွက် လူ့ဘဝသို့ ရောက်လာရသူဟု မှတ်ယူထား၏၊ သူ့ဘဝတစ်လျှောက်လုံးကို သာသနာတော်ထဲ မြှုပ်ထားသည်။

ထို့ကြောင့် ဘာသာရေး, သာသနာရေးအလုပ်တွေ လုပ်တိုင်း ဆရာတော်က "နောက်မဆုတ်ပေါင်, ခုလိုတွေးလို့, ကုသိုလ်ရေးမို့ ကြိုးစားမည်"ဟူ၍လည်းကောင်း, "ဗုဒ္ဓမြတ်စွာ, သာသနာအတွက်တော့, ငါပါ အသက်ဆုံးစေမည်"ဟူ၍လည်းကောင်း အံကြိတ်၍ ကြိုးဝါးတော်မူတတ်သည်၊ ဤသို့ ကြိုးဝါးတော်မူပြီးလျှင် အများနှင့် စုပေါင်း၍ မဖြစ်သော အလုပ်ကို တစ်ပါးတည်း (ကန့်ကွက်သူမရှိ) ဆက်လက် လုပ်တတ်သည်။

ယခုလည်း တစ်ပါးတည်း အဆိုတင်သွင်း၍ တစ်ပါးတည်း ထောက်ခံကာ တစ်ပါးတည်း ကန့်ကွက်သူမရှိ, စွန့်စွန့်စားစား သာသနာတော်အတွက် အလုပ်တွေ များစွာလုပ်လာခဲ့သည်။

## ရည်မှန်းချက်နှင့်ဆောင်ရွက်ချက်

ဆရာတော် အရှင်ဇနကာဘိဝံသမှာ မူဝါဒတစ်ခု ရှိ၏၊ ယင်းမှာ သာသနာ့ဝန်ထမ်းသားတိုင်း နိကာယ်ငါးရပ် ပိဋကတ်ကို အလွယ်တကူ တတ်မြောက်ရေးပင် ဖြစ်၏၊ ဤအရေးကိစ္စကို အများနှင့် စုပေါင်း၍ ဆောင်ရွက်ကြဖို့ရန် စီမံခဲ့ဖူးသည်၊ အောက်ခြေမှစ၍ ကျမ်းစာများကို သင့်လျော်အောင် အဆင့်များခွဲပြီး ပြုစုရေး, ပြီးမှ အလယ်ဆင့်, အထက်ဆင့်များသို့ မြင့်ကာ မြင့်ကာ သင်ယူသွားဖို့ ကျမ်းစာများ ပြုစုရေး ဤအရေးတို့အတွက် စည်းဝေးတိုင်ပင်ခဲ့ကြ၏။

မိမိတို့ တပည့်များမှ စ၍ လက်တွေ့သင်ပြကြဖို့ကိုလည်း အကြိမ်များစွာ လှုံ့ဆော်ခဲ့ဖူး၏၊ သို့သော် မအောင်မြင်ခဲ့ပေ၊ မအောင်မြင်သော်လည်း ဤလမ်းစဉ်တို့မှာ သဘာဝကျ၍ တိတိပပ မှန်ကန်နေသည်ကို သိမြင်ထားပြီး ဖြစ်သည်။

ထို့ကြောင့် အများနှင့် စုပေါင်းလုပ်ဆောင်မှုကိစ္စ မအောင်မြင်သောအခါ ဆရာတော်က တစ်ပါးတည်း လုပ်ငန်းစတော့သည်၊ မည်သို့ စသနည်း၊ စာသင်သားငယ်များအတွက် ပိဋကတ်တော်ကို သင်ရာတွင် အခြေခံမှ စနိုင်ဖို့ရာ **သဒ္ဒါဘက်၌**...

၁။ ပါဠိသိက္ခာနှင့် သဒ္ဒါကျဉ်း၊
၂။ နာမ်ကိုဏ်း, အာချာတ်ကိုဏ်း၊
၃။ အခြေပြုသဒ္ဒါ၊
၄။ ကစ္စည်းဘာသာဋီကာ (ပ, ဒု)၊
၅။ ရူပသိဒ္ဓိဘာသာဋီကာ (ပ, ဒု)၊
၆။ သဒ္ဒတ္ထဘေဒစိန္တာနှင့် ကစ္စာယနသာရဘာသာဋီကာ၊
၇။ အလင်္ကာဘာသာဋီကာ၊
၈။ ကထာသလ္လာပသိက္ခာ။

**ဝိနည်းဘက်တွင်**...

၉။ ရုပ်ပုံရှင်ကျင့်ဝတ်၊
၁၀။ ပါတိမောက်ဘာသာဋီကာ၊
၁၁။ ကင်္ခါဘာသာဋီကာ (ပ, ဒု)၊
၁၂။ ခုဒ္ဒသိက္ခာဘာသာဋီကာ၊
၁၃။ ဘုရားဥပဒေတော်ကြီး၊
၁၄။ ပါရာဇိကဏ်ဘာသာဋီကာ (ပ,ဒု,တ,စ)၊
၁၅။ ပါစိတ်ဘာသာဋီကာ၊
၁၆။ ဝိနည်းမဟာဝါဘာသာဋီကာ၊
၁၇။ စူဠဝါဘာသာဋီကာ၊
၁၈။ ပရိဝါဘာသာဋီကာ၊

**သုတ္တန်ဘက်တွင်**...

၁၉။ သီလက္ခန်ဘာသာဋီကာ (ပ, ဒု, တ, စ)၊
၂၀။ သုတ်မဟာဝါဘာသာဋီကာ (ပ,ဒု,တ,စ)၊
၂၁။ သုတ်ပါထေယျဘာသာဋီကာ (နှစ်ရက်မျှ ချုပ်ပို့ ပြုစုသွား)၊
၂၂။ အဋ္ဌကထာ အခြေပြု။

**အဘိဓမ္မာဘက်တွင်**...

၂၃။ သင်္ဂြိုဟ်ပါဠိ (အရှင်ဇနကာဘိဝံသမူ)
၂၄။ အခြေပြုသင်္ဂြိုဟ်၊
၂၅။ သင်္ဂြိုဟ်ဘာသာဋီကာ၊
၂၆။ ဝီထိနှင့်သုံးချက်စုဘာသာဋီကာ၊
၂၇။ ဋီကာကျော်နိဿယ၊
၂၈။ အဋ္ဌသာလိနီဘာသာဋီကာနှင့်မူလဋီကာနိဿယ (ပ, ဒု, တ, စ)၊
၂၉။ သမ္မောဟဝိနောဒနီဘာသာဋီကာနှင့် မူလဋီကာနိဿယ (ပ, ဒု, တ)၊
၃၀။ ပဋ္ဌာနပကရဏဘာသာဋီကာနှင့် မူလဋီကာနိဿယ (ပ, ဒု, တ, စ, မ)၊

## လူအများ ကြည့်ရှုကျင့်သုံးဖို့ရန် ပကိဏ္ဏကကျမ်းစာများ

၃၁။ ရတနာ့ဂုဏ်ရည် (အဦးဆုံးကျမ်းစာ)၊
၃၂။ ကိုယ်ကျင့်အဘိဓမ္မာ၊
၃၃။ အနာဂတ်သာသနာရေး၊
၃၄။ အခြေပြုမင်္ဂလသုတ်၊
၃၅။ ဗုဒ္ဓဝင် အမေး အဖြေ၊
၃၆။ ရုပ်စုံဗုဒ္ဓသာသနာဝင်၊
၃၇။ ဘာသာသွေး၊
၃၈။ ဖြဟ္မဇာလသုတ်မြန်မာပြန်၊

၃၉။ သာမညဖလသုတ်မြန်မာပြန်၊
၄၀။ မူလတန်းဘာသာရေးနှင့် အလယ်တန်း ဘာသာရေး (ဝိုင်အမ်ဘီအေ)၊
၄၁။ ဗုဒ္ဓဘာသာလက်စွဲသင်ခန်းစာများ (နိုင်ငံတော်အစိုးရ)၊
၄၂။ ဂါဒီယန် ဦးစိန်ဝင်းလျှောက်ထားချက် ဘာသာရေးပြဿနာများနှင့်အဖြေများ၊
၄၃။ ဦးထိန်ဝင်းလျှောက်ထားချက်နှင့် အဖြေများ၊ သရဏဂုံနှင့်စပ်၍ မှတ်ဖွယ်၊
၄၄။ ပစ္စဗိတဒုလ္လဘကထာ၊
၄၅။ ဗုဒ္ဓါနုဿတိဘာဝနာ၊
၄၆။ ဓမ္မစကြာနှင့်အနတ္တလက္ခဏသုတ်တရားတော်၊
၄၇။ လူ့ချမ်းသာ၊
၄၈။ အခြေပြုပဋ္ဌာန်းတရားတော်၊
၄၉။ တစ်ဘဝသံသရာ၊
၅၀။ စစ်တပ်တရားတော်၊
၅၁။ နောက်ဆုံးဆယ်လ မြတ်ဗုဒ္ဓကျမ်းစာများနှင့် ဩဝါဒစာအုပ်ငယ်များ ဖြစ်ကြပါသည်။

အချို့ကျမ်းစာများက ၂ တွဲ၊ အချို့ ၃ တွဲ၊ အချို့ ၄ တွဲ၊ အချို့ ၅ တွဲ (စာမျက်နှာ ၆၀၀ ကျော်စီ ရှိသဖြင့်) ခွဲ၍ ရိုက်ထားကြရပါသည်၊ အားလုံး အသေး အလတ် အကြီး ဆိုက်စုံ ကျမ်းစာအမျိုးပေါင်း ၅၁၊ အုပ်တွဲပေါင်း ၇၄ တွဲမျှ ရေးသားပြုစုသွားတော်မူခဲ့ပါသည်။

## ကျမ်းပြုပုံခြင်း ခြားနားကြ၏

ဤသို့ ကျမ်းစာများ ပြုစုပုံတို့ကို ကြည့်၍ပင် ဆရာတော်၏ စေတနာ၊ ဆရာတော်၏ ဆန္ဒတို့ကို အကဲခတ်၍ ရနိုင်ပါသည်၊ အခြား အခြားသော ကျမ်းပြုအကျော် ဆရာတော်တို့မှာ ဝိနည်း သုတ္တန် အဘိဓမ္မာတို့တွင် မိမိတို့ သန်ရာ သန်ရာ၊ မိမိတို့ နှစ်သက်ရာ မြတ်နိုးရာတို့ကိုသာ အချို့အဝက် တစ်စိတ် တစ်ဒေသ ရွေးထုတ်၍ ကျမ်းပြုတော်မူလေ့ ရှိကြ၏။

ဆရာတော် အရှင်ဇနကာဘိဝံသသည်မူကား ထိုသို့ မဟုတ်ချေ၊ သူ၏ မူလရည်ရွယ်ရင်းမှာ... စာသင်သားတိုင်း လွယ်ကူစွာ ပိဋကတ်တတ်မြောက်ရေး ဖြစ်ရကား ဝိနည်း သုတ္တန် အဘိဓမ္မာ အားလုံးကို အစမှ အဆုံးတိုင် (ခက်သည်ဖြစ်စေ၊ လွယ်သည်ဖြစ်စေ၊ မိမိစိတ်ဝင်စားသည်ဖြစ်စေ၊ မဝင်စားသည်ဖြစ်စေ) မချွင်းချန်ဘဲ ငန်းတိုက်၍ အကုန်ပြုစုသွားတော်မူ၏။

ဤသို့ ကျမ်းပြုတော်မူပုံချင်း ခြားနားကြပေသည်။

## လူ့ချမ်းသာ နတ်ချမ်းသာ ဗြဟ္မာချမ်းသာ

ဤကျမ်းစာ စာရင်းတို့ကို ကြည့်ပါလျှင် ရဟန်းသံဃာတော်များအတွက်သာ ဝိနည်း သုတ္တန် အဘိဓမ္မာ ဆိုင်ရာတို့ကို ရေးသားသည်မဟုတ်သေး၊ လူတို့အတွက်လည်း (ကလေးသူငယ်မှ စ၍) လူရွယ် လူလတ် လူကြီးပိုင်းတို့အထိ ကြည့်ရှု ကျင့်သုံးဖို့ရာ ရေးသားထားကြောင်း တွေ့နိုင်ပါသည်။

လူတို့အတွက် "လူ့ချမ်းသာ"ဟူသော စာအုပ်ငယ်ကလေးဆိုလျှင် မွေးဖွားလာစမှ စ၍ နို့စို့အရွယ်၊ ထိုင်နိုင်တဲ့အရွယ်၊ မတ်တတ်ရပ်နိုင်တဲ့အရွယ်၊ ပြေးသွားနိုင်တဲ့အရွယ်၊ ကျောင်းလိုက်နိုင်တဲ့အရွယ် စသည်ဖြင့် အရွယ်တိုင်းမှာ လိုက်နာဖွယ်ကလေးတို့ကို ချစ်စရာ စကားလုံးကလေးတို့ဖြင့် ရေးသာထား၏။

ရွာဦးကျောင်း မြို့ဦးကျောင်း (တောမြိုင်စောင်း) မှာ နေသော ဆရာတော်ကြီးတစ်ပါးက လူ့လောက အကြောင်းကို ဤမျှလောက် အတွင်းကျကျ သိနေသည်မှာ အံ့ဩစရာ ကောင်းတော့၏၊ ဤကျမ်းစာ ကလေး ရေးသားစဉ် ဆရာတော်က အမိန့်ရှိဖူးသည်။

"အခု ဘုန်းကြီး "လူ့ချမ်းသာ"ဆိုတဲ့ စာအုပ် ရေးနေတယ်၊ အတော်ပြီးပြီ၊ တိုးတက်စေချင်လို့ပါ၊ ဘုန်းကြီးတို့ ပြည်ထောင်စုသားတွေ ကမ္ဘာ့နိုင်ငံသားတွေနဲ့ ယှဉ်လိုက်ရင် မညံ့အောင်လို့ပါ၊ နောက် အခွင့်သင့်ရင် "နတ်ချမ်းသာ"၊ ပြီတော့ "ဗြဟ္မာ့ချမ်းသာ"ဆိုတဲ့ နာမည်တွေနဲ့လဲ ရေးဦးမယ် စိတ်ကူးထားတယ်" ဟူ၍ ဖြစ်သတည်း။



ဆရာတော်၏ အောင်မြင်မှုပမာဏ



အဘိဓမ္မာ ဘာသာဋီကာများ



သဒ္ဒါဆိုင်ရာ ကျမ်းစာများ

## အောင်မြင်မှု ပမာဏမှာ

ဤသို့လျှင် ဆရာတော်က လူရှင်မခွဲခြား, ဂိုဏ်းဂဏ မခွဲခြားဘဲ အားလုံးသောပုဂ္ဂိုလ်တို့အတွက် တိုးတက်ဖို့အကျိုးငှာ ရည်သန်သော စိတ်ထားဖြင့် ကျမ်းစားများကို ရေးသားပြုစုတော်မူခဲ့၏၊ ထို့ကြောင့် ဂိုဏ်းပေါင်းစုံ စာသင်သားတို့ကလည်း တုံ့ပြန်၍ လေးစားကြ၏၊ မြတ်နိုးကြ၏၊ တန်ဖိုးထားကြ၏၊ စေတနာ မေတ္တာဓာတ်ဖြင့် ရေးသားအပ်သော ကျမ်းစာတို့ကလည်း ကြည့်ရှုလေ့လာသူအပေါင်းကို သိလွယ် မြင်လွယ်စေ၏၊ ထင်လွယ် သဘောပေါက်လွယ်စေ၏၊ အသိဉာဏ်အလင်းရောင်ကို ပေး၏၊ ထို့ကြောင့် ယနေ့ခေတ် စာသင်သားတိုင်း၏ ခေါင်းရင်းကို ကြည့်လျှင် ဆရာတော် အရှင်ဇနကာဘိဝံသ၏ စာအုပ်နှင့် ကင်းသောခေါင်းရင်း မရှိချေ၊ ဘယ်မြို့ ဘယ်ရွာ ဘယ်ကျောင်း ဘယ်စာသင်တိုက်မှာ မဆို စာသင်သားတိုင်း၏ ခေါင်းရင်းမှာ ဆရာတော်၏ စာအုပ်ကလေးများကို တရိုတသေထား၍ လေးစားစွာ လေ့လာကြ ကြည့်ရှုကြ ကျက်မှတ်ကြသည်သာ၊ ဤအတိုင်းအံ့တာ ပမာဏကို ကြည့်၍ မည်မျှ အောင်မြင်သည်ကို သိနိုင်ကြပါသည်။

ဆရာတော် အရှင်ဇနကာဘိဝံသသည် စာချဘုန်းကြီးကလေးဘဝက စတင်စိတ်ကူးခဲ့သော (အများစုနှင့် စုပေါင်း၍ အကောင်အထည်ဖော်ရာတွင် မအောင်မြင်ခဲ့သော) ပရိယတ္တိပညာသင်ကြားရေးစနစ်ကြီးပြုပြင်ရေးကို မိမိကိုယ်တိုင် စိတ်တိုင်းကျ တည်ထောင်ရသော အမရပူရမြို့ မဟာဂန္ဓာရုံကျောင်းတိုက်ကြီး ဖြစ်ပေါ်လာကာမှပင် လက်တွေ့စမ်းသပ် အကောင်အထည်ဖော်ခွင့် ရပေတော့သည်။

ဤသို့လျှင် စီမံကိန်းကျမ်းစာများနှင့် လက်တွေ့အကောင်အထည်ဖော်မှုကိစ္စများ မည်မျှ အောင်မြင်သည် မအောင်မြင်သည်ကိုလည်း ယခုအခါ မြန်မာပြည်သာမက ကမ္ဘာအရပ်ရပ်ကပါ အာရုံစိုက်လာရသော အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်ကြီးကို ကြည့်၍ပင် အကဲဖြတ်နိုင်ပါတော့သည်။

# ဆရာတော့်ဘဝနှင့် ကျမ်းစာများ

## တစ်နေ့တာရေးနှုန်းခန့်မှန်းသော်

ဆရာတော်ရေးသားသွားခဲ့သော ကျမ်းစာအုပ်တို့မှာ ကြီးကြီးငယ်ငယ် ရှယ်ရှယ်လတ်လတ် စုစုပေါင်း ၇၄ မျိုးမျှ တွေ့ရသည်၊ အချို့က တစ်မျိုးလျှင် ၃ တွဲ ၄ တွဲမျှ ရှိကြ၏၊ စာအုပ်ကြီးများကလည်း ထူထဲလှ၏၊ **ရေးသားခဲ့သမျှ စာအုပ်တို့ကို စီ၍ ဆင့်၍ ထပ်ထားပါလျှင် ဆရာတော်၏ အရပ်ထက်ပင် မြင့်စရာရှိပါသည်၊ ဆရာတော်၏ အရပ်တော်ကား ၅ ပေ ၈ လက်မခန့် မြင့်မားတော်မူ၏၊ ဆရာတော်၏ တစ်ဘဝလုံးကို စာရွက်တွေဖြင့် ဖုံးနေသလို ထင်ရ၏။** ဤမျှ များပြားလှသော ကျမ်းစာတို့ကို ပြီးမြောက်အောင် မည်သို့ မည်ပုံ ရေးသနည်း၊ အချို့နိုင်ငံကြီးသားတို့က ခရီးတွင်အောင် လက်နှိပ်စက်ဖြင့် ရိုက်ရင်း ရေးကြ၏၊ အချို့ကမူ ပါးစပ်က ပြောသွားသည်ကို တိပ်ခွေဖြင့် အသံဖမ်းယူထားပြီးမှ စာလုံးအဖြစ် ကူးယူကြသည်၊ ထို့နောက် စာအုပ်အဖြစ်ရောက်အောင်ပို့ကြသည်၊ ဆရာတော်ကလည်း ထိုနည်းများအတိုင်း ရေးလေသလော။ မဟုတ်ပါပေ၊ ရိုးရာအတိုင်း လက်ဖြင့်သာ ရေးခြင်းဖြစ်ပါသည်၊ ထို့ကြောင့် တစ်နေ့တာရေးနှုန်းကို ခန့်မှန်းချင်ကြသည်၊ တစ်နေ့လျှင် စာတစ်မျက်နှာ ရေးပါက တစ်နှစ်လျှင် ၃၆၅ မျက်နှာ ရှိရမည်၊ (စာပုံနှိပ်စက်စာလုံးဖြင့် စာမျက်နှာကို ဆိုလိုခြင်းဖြစ်သည်၊) ထို့ထက်တိုး၍ တစ်နေ့လျှင် ၂ မျက်နှာ ရေးပါက တစ်နှစ်လျှင် ၇၃၀ မျက်နှာ ရှိရပေမည်။

ယခု ဆရာတော် ရေးသားပြုစုသော ဘာသာဋီကာကြီးများမှာ တစ်အုပ် တစ်အုပ်လျှင် စာမျက်နှာအားဖြင့် ၆၀၀ ကျော် ၇၀၀ နီးပါး, အချို့ ၇၀၀ ကျော် ရှိသည်၊ အချို့အဋ္ဌကထာကြီးများကို ပို့ချရေးသားရာ၌ ၃ နှစ်ကြာ၏၊ (ပ ဒု တ) ၃ တွဲ ခွဲ၍ ထွက်လာရသည်၊ အချို့က ၄ နှစ်ကြာ၍ ၄ တွဲ ထွက်လာ၏၊ ထို့ကြောင့် တစ်နှစ်လျှင် ပျမ်းမျှ တစ်အုပ်ပြီးသည်ဟု ဆိုနိုင်သည်၊ သို့ဖြစ်၍ ထိုစာအုပ်ကြီးအတွက် တစ်နေ့လျှင် ၂ မျက်နှာ ရေးရ၏ဟု သိနိုင်တော့သည်။

## တစ်နေ့ ၆ မျက်နှာ အနည်းဆုံးရေးသား

သို့သော်လည်း ထိုကျမ်းစာမျိုး တစ်နေ့လျှင် ၃ ကျမ်း, ၃ ကျမ်းပြိုင်၍ ချပို့မြဲ ဖြစ်၏၊ ရေးသားမြဲ ဖြစ်၏၊ ထို့ကြောင့် ထိုကျမ်းစာများ အတွက်ပါ တာဝန်ကျေဖို့ဆိုပါက တစ်နေ့လျှင် ၆ မျက်နှာ ရေးရ ပေတော့မည်၊ ဤအတွင်း၌ ကြိုးကြား ကြိုးကြား အခြားစာအုပ်ကလေးများ ရေးသားပေးရတတ်သေး ရာ ထိုနှုန်းအောက် မလျော့နိုင်တော့ချေ။

"တစ်နေ့လျှင် စာ ၆ မျက်နှာ"ဆိုရာ၌ ဝတ္ထု မဂ္ဂဇင်း သတင်းစာတို့လို ခပ်လွယ်လွယ် ရေးသား ရသော စာမျိုး မဟုတ်ပေ၊ ဆရာတော် ရေးသား ဖွင့်ဆိုနေရသည်မှာ အဓိပ္ပာယ်လေးနက်သော ကျမ်း စာကြီးများ ဖြစ်၍ သတိအား, သမာဓိအား, ဉာဏ် အား များစွာ စိုက်ရ၏။

ဆရာတော်၏ ရေးဟန်အတိုင်း ခက်ခဲသောပုဒ် တိုင်းကို ဓာတ် ပစ္စည်း လိင် ဝုစ်များ ခွဲခြားပြ၍ စာစပ်ကိုပါ သတိပေးခဲ့ပြီးလျှင် ဝိဂြိုဟ် ကျင်းတန် လျှင် ကျင်းပြလိုက်သေး၏၊ ပြီးမှ အရင်းအမြစ်ကျကျ အဓိပ္ပာယ်ကို ဖော်ပြလေသည်၊ အလွန်မှတ်သားဖွယ် ကောင်းသော နေရာများဆိုလျှင် ဆောင်ပုဒ်လင်္ကာ ကလေးများကိုပင် သီကုံးဖွဲ့နွဲ့၍ သွားခဲ့ပေသေး၏။

အချို့နေရာ၌ အလွန် တိမ်မြုပ် ငုပ်နေသော အဓိပ္ပာယ်များကို အတော်ကြံစည်ရသည်ဟု မိန့် တတ်၏။

စာချရင်း မကြာ မကြာ ပြန်လည်ပြောပြ အမိန့်ရှိ တတ်သည်မှာ "ဒီပုဒ်ရဲ့ အဓိပ္ပာယ်ကို ဘေးတုတ် အောင် ကြံရသည်"ဟူ၍ ဖြစ်သတည်း။

## သံဃိကလည်း မဟုတ် ပုဂ္ဂလိကလည်း မထား
## ဂရိတ်ဖိုးစိန်ကြီးဟာ မရိုးနိုင်ဘူး

ဤမျှလောက် များပြားသော ကျမ်းစာတို့ကို ဆရာတော်တစ်ပါးတည်း ပြုစုရေးသားလာခဲ့သည် ဆိုရာတွင်ပင် ယုံနိုင်စရာ မရှိအောင် ဖြစ်ရသည်၊ သို့ရာတွင် အမှန်ပင် ဖြစ်ပါ၏၊ သက်တော် ၃၀ အရွယ်မှ စ၍ ယခုလို ၈၀ နီးပါးအရွယ်အထိ နှစ် ပေါင်း ၅၀ ခန့် မပြတ်မလပ် ရေးသားတော်မူ ခဲ့သည်။

ကျမ်းစာအုပ်တွဲကြီးတို့မှာ ၇၄ တွဲမျှ ရှိသဖြင့် ပျမ်းမျှနှုန်း တစ်နှစ် တစ်အုပ်မျှမက ပြီးစီးနေခဲ့သည်၊ ဤမျှ ပြီးစီးရပုံကို တစ်ခါက ဆရာတော်ကိုယ်တိုင် စာရေးဆရာ ဦးသိန်းဖေမြင့်အား အမိန့်ရှိဖူး၏၊ "အခုလောက် များစွာ ပြီးရတာက လူတွေလို ဗာဟိရကိစ္စ မများလို့ပဲ"ဟူ၍ ဖြစ်သည်။

ဆရာတော်ကလည်း နောက်ပိုင်းတွင် သာရေး နာရေး ပင့်သည့် ဗာဟိရကိစ္စမျိုးကို အတော်နည်း အောင် ရှောင်လိုက်တော့သည်၊ ဤနေရာ၌ ဆရာ တော်၏ ကပ္ပိယကာရက ဒကာကြီး ဦးကျော်ဝင်းက လည်း လျှောက်ထားဖူးပါသတဲ့. . .

"ဂရိတ်ဖိုးစိန်ကြီးဟာ အသက် ၁၁ နှစ်သားက ပြီး က တာ, ၇၁ နှစ်မှ ကွယ်လွန်တာဘုရား၊ နှစ်ပေါင်း ၆၀ လောက် က လာတာ, မရိုးဘူး၊ သူ့ကို ကြည့်လို့ မဝကြဘူး၊ ဘာလို့လဲဆိုတော့ သူက ဇာတ် ခုံပေါ်မှာသာ မျက်နှာပြတာ၊ အပြင်ကိုတော့ ထွက် တာ မဟုတ်ဘူးဘုရား၊ သူ့အလုပ်သူ အာရုံစူးစိုက် ပြီး ကြိုးစားနေတာပဲ"။

ဤလျှောက်ထားချက်ကို. . . ဆရာတော်က သဘောကျ၏၊ ပြုံး၍ လက်ခံသည်၊ စောစောပိုင်းက တရားဟောပါရန် မကင်းရာ မကင်းကြောင်းတို့က လာပင့်လျှင် လိုက်၍ လိုက်၍ ဟောသောကြောင့် လျှောက်ထားခြင်း ဖြစ်သည် ဆို၏။

နောက်ပိုင်းတွင် အပြင်ကိစ္စတို့ကို လျှော့ပစ် လိုက်သည်၊ ဤနည်းဖြင့် ကြိုးစားလာခဲ့သော ကြောင့်လည်း ဤမျှများပြားစွာ ပြီးစီးခြင်း ဖြစ်ပေ မည်။

## ကောင်းကောင်းနေတဲ့ သံဃာများဖို့

ဆရာတော်၏ ဤမျှလောက်သော စေတနာ သဒ္ဓါ သတိ သမာဓိ ပညာ ဝီရိယအားတို့ဖြင့် ကြိုးစား၍ ရေးသားတော်မူခဲ့သော ကျမ်းစာတို့နှင့်ပတ်သက်ပြီး တစ်ခုသော နံနက်ခင်း ဩဝါဒတွင် ဆရာတော်က ဤသို့ အမိန့်ရှိသည်။

"ယခု ဘုန်းကြီး ရေးသားထားတဲ့ စာအုပ်တွေဟာ သံဃိကလဲ မဟုတ်, ဘုန်းကြီးပိုင်လဲ လုပ်မထားပါဘူး, ကောင်းကောင်းနေတဲ့ သံဃာတော်တွေကို ထောက်ပံ့ဖို့ပါပဲ"၊ "မင်းတို့ (စာအုပ်ကြီးကြပ်လုပ်ကိုင်သူတွေ)လဲ လုပ်ကိုင်ခ လောက်ပဲ မှန်းပြီး သုံးစွဲကြ, အလွန်အကျွံ မဖြစ်ကြစေနဲ့, ပြီးတော့ သံဃာကို ထောက်ပံ့ကြလို့ ပြောထားရတယ်"။

[၁၃၃၁ ခု နယုန်လဆုတ် ၁၀ ရက် ဩဝါဒ]

ဤသို့လျှင် ဆရာတော်က "သံဃိက"အဖြစ် သတ်မှတ်ထားပါက သုံးစွဲသူများ အကယ်၍ ချွတ်ချော်သွားပါလျှင် အပြစ် ကြီးလွန်းမည် စိုးသောကြောင့် မသတ်မှတ်ဘဲ ထားဟန်တူသည်။

တစ်ဖန် "ပုဂ္ဂလိက"အဖြစ် သတ်မှတ်ပြန်လျှင်လည်း ရရှိသော အကျိုးအမြတ်ကလေးတို့အပေါ်၌ သာယာ မှက်မော တွယ်တာနေမိမည် စိုးသောကြောင့် ပုဂ္ဂလိကအဖြစ်လဲ သတ်မှတ်ခြင်း မပြုဘဲ ထားဟန်တူပေသည်။

## သံဃိကပစ္စည်းကို အလွန်လေးစား

ဆရာတော်သည် သံဃိကကျောင်း, သံဃိကဇရပ်, သံဃိကအသုံးအဆောင်, သံဃိကပစ္စည်းကို ထိုက်တန်ရုံမျှသာ သုံးစွဲတော်မူသည်၊ တစ်ခါတလေ အများပိုင် သံဃိကထဲမှ ငှက်ပျောသီးတစ်လုံးစ နှစ်လုံးစကို ဘုဉ်းပေးလိုပါက သူ့မှာရှိသော ကိုယ်ပိုင်မုန့်ဖြင့် လဲ၍ စားသည်။

လဲသော အခါတွင်လည်း သူက ပို၍ ပေးတတ်သည်၊ သူက အနာခံသည်၊ သံဃာ့ဘက်က မနာစေရ၊ သို့မှသာ စိတ်ရှင်းပုံရသည်၊ ပစ္စည်းဝေသော အခါတွင်လည်း သံဃိကပစ္စည်းကို အလွန်လေးစားတော်မူ၏၊ ဥပမာ- သံဃာက အပါး ၁၀၀, ပစ္စည်းက ၁၁၀ ရှိ၊ ၁၀ ခု ပိုနေသည်၊ အပိုကို သူ ယူမထား, "ငါလူကြီးပဲ"ဟူ၍ မကျင့်သုံးပါ။

သံဃိကပစ္စည်းနှင့် ပတ်သက်လာလျှင် အများကလည်း သူ့လိုပင် လေးစားစေချင်၏၊ တစ်ခါတွင် ဆရာတော်၏ ကျောင်းကလေး အနီးမှ စောင်းလျားပင်ကြီးက အသီးတွေ ဝင်းမှည့်နေကြသည်၊ စားချင်စရာတွေ ဖြစ်၏၊ "ဆွတ်လှည့်ပါ, ခူး လှည့်ပါ"လို့ ခေါ်သလိုပင် ထင်ရသည်။

ထိုအခါ ဒကာထိန်ဝင်းက အကိုင်းတွေကို နှိမ့်၍ ခူးတော့၏၊ ဆရာတော်က ပြုံးကြည့်နေသည်၊ ဘာမျှမပြောသေး, ခူးပြီးမှ-

"ဒကာထိန်ဝင်း. . . အဲဒါ သံဃိကအပင်, အသီးတွေလဲ သံဃိက သံဃာ့ပစ္စည်း, မထိုက်မတန် မစားကောင်းဘူး၊ ဒီတော့ သံဃိကပစ္စည်းထိန်းတဲ့ ဒေါ်ရှမ်းဆီ သွားပြီး တန်ဖိုး ချေလိုက်" ဟူ၍ မိန့်တော့သည်။

ဤသို့လျှင် ပညတ်တော်မူချက်ကို ဦးထိပ်ရွက်ပြီး လေးလေးနက်နက် ယုံကြည်ခံယူ၍ ကျင့်သုံးတော်မူလေ့ ရှိသည်။

## ဘုရားစကားကို မပယ်ရှားဝံ့ပါ

တစ်ခါတွင်လည်း မန္တလေး ဝိသုဒ္ဓါရုံတိုက်သစ်ထဲက ပင်မပိဋကတ်တိုက် ရေစက်ချပွဲတွင် မိန့်သောစကားတစ်ခွန်း ရှိသေး၏၊ ထိုပွဲတွင် ဆရာတော်ကို တရားဟော၍ ရေစက်ချပေးပါရန် လျှောက်ထားကြသည်၊ ရေစက်ချအခန်းသို့ ရောက်လာသောအခါ ဆရာတော်က အမိန့်ရှိ၏။

"ဒီတိုက်ကို စောင့်ရှောက်မည့် အကြီးအကဲ ဘုန်းကြီးထံ အပ်နှံ၍ သံဃိက ရေစက်ချပေးပါလို့ လျှောက်ကြတယ်၊ သံဃိကကျောင်းဆိုတာ ရိုရိုသေသေ လေးလေးစားစား သုံးရတယ်၊ ဒါမှ ၂ဦး၂ဖက် အကျိုးရှိတယ်၊ မလေးမစား သုံးကြရင် အပြစ်ကြီးတယ်၊ ဒါကြောင့် ရှေးက ဆရာတော်အချို့က ခြင်းချက်နှင့် ရေစက်ချပေးတတ်ကြတယ်၊ "ဒီကျောင်းပေါ်ကို မဆေးသော ခြေလက်, ညစ်နွမ်းသောကိုယ်, စွတ်စိုသောချွေးတို့ဖြင့် ထိတွေ့၍ သုံးစွဲနိုင်ပါသည်" လို့။ . .

ဘုန်းကြီးကတော့ အဲသလို ချမပေးဝံ့ဘူး၊ ဘာလို့လဲဆိုတော့ ဘုရားက ပြောထားတာ၊ မသန့် မရှင်း သုံးစွဲရင် အပြစ်သင့်တယ်၊ အာပတ်သင့်တယ်လို့၊ ဒီတော့ ဘုရားစကားကို ဘုန်းကြီးက မပယ်ရှားဝံ့ဘူး။

ဒါယကာတို့က "အကြင်နည်းဖြင့် ပြော၍၊ ထိုနည်းဖြင့် သုံးစွဲကောင်းတယ်"လို့တော့ ရှိပါတယ်၊ ဒါပေမယ့် ချွေးတွေ အညစ်အကြေးတွေနှင့် ပေကျံတာကို ဒါယကာတွေ ကျေနပ်ပါ့မလား။

ဒါကြောင့် ဒါတော့ မထည့်ဝံ့ဘူး၊ ဘုရားက အာပတ်တပ်ထားတာဆိုတော့ အာပတ် မသင့်အောင် ဘုန်းကြီးက မလုပ်ဝံ့ဘူး"ဟူ၍ သံဃိကနှင့် ပတ်သက်လာလျှင် ဆရာတော်က အလေးအပင်ထားတော်မူတတ်သည်။

## စာမျက်နှာ အများဆုံးရေးသော ဆရာတော်

ဤသို့လျှင် ရှေးနောက် ဝန်းကျင် လက်လှမ်းမီရာ ခေတ်တွင်ကား ကျမ်းစာရေးသားကြသော ဆရာတော်တို့တွင် "ဆရာတော် အရှင်ဇနကာဘိဝံသသည် စာကို အများဆုံး ရေးသားနိုင်သူဟု"ဟု ဆိုရပေမည်။

အချို့ဆရာတော်က စာအုပ်အရေအတွက်အားဖြင့် ပိုကောင်း ပိုမည်ဖြစ်သော်လည်း (ဘာသာဋီကာစာအုပ်ကြီးတို့က ထူထဲခံ့ညားလှသဖြင့်) ဆရာတော် အရှင်ဇနကာဘိဝံသကို စာရွက်ရေအားဖြင့်မူ မီနိုင်မည် မဟုတ်ပေ။

ထို့ကြောင့် "ဆရာတော် အရှင်ဇနကာဘိဝံသသည် စာရွက်ရေ အများဆုံး (စာမျက်နှာ အများဆုံး) ရေးနိုင်သူ"ဟု ဆိုရမည် ဖြစ်၏။

ဤသို့လျှင် ဆရာတော်ကား နောင်လာနောက်သား နှောင်းသူများအတွက် စေတနာအပြည့်အဝထား၍ ကြိုးစားပန်းစား ရေးသားခဲ့ရသော်လည်း မလိုသူ တချို့ကမူ ဤသို့ ပြောပါသတတ်။

"ဦးဇနက ဉာဏ်ကောင်းတာတို့, စာတော်တာတို့ကို မချီးမွမ်းလိုပါဘူး၊ တို့လဲ ဉာဏ်ကောင်းတာပဲ၊ စာတော်တာပဲ၊ ကျမ်းစာရေးတော့လဲ သူ့စာအုပ်တွေဟာ ကောင်းတယ်လို့ အများက နံ့ပြာကြတယ်၊ ဒါလဲ မဆန်းပါဘူး၊ တို့လဲရေးရင် ဒါလောက်တော့ ကောင်းမှာပဲ၊ အဲ-တစ်ခုတော့ရှိတယ်၊ သူ့ကို ချီးမွမ်းစရာက ဘာလဲဆိုရင် ဒါလောက်စာတွေ များများ ရေးပါလျက်နှင့် သူ့လက်ကလေးတွေ မညောင်းတာတော့ အံ့သြစရာပဲ" ဟူ၍ ဖြစ်သတည်း။

## စာချခြင်းပင် ကျမ်းစာရေးသားခြင်း

နားမလည်နိုင်သူ အများစုက မေးကြသည်၊ "ဘယ့်နှယ်လဲ ဆရာတော်က တစ်နေ့မှာ စာဝါကလဲ ၃ ဝါလောက်ချတယ်ဆိုသေး, ကျမ်းစာတွေကလဲ တစ်အုပ်ပြီး တစ်အုပ် ထွက်နေသေးတယ်ဆိုတော့ ဘယ်လိုလုပ်ပြီး ရေးနေတာလဲ၊ စာချဖို့ ကြိုတင်ပြင်ဆင်ချိန်ကို ဘယ်လိုယူသလဲ၊ ကျမ်းစာရေးဖို့ အချိန်ကော ဘယ့်နှယ် အသုံးပြုသလဲ"စသည်ဖြင့် မေးတတ်ကြ၏၊ မေးစရာပင် ဖြစ်ပါသည်။

ယခုခေတ်၌ မည်သည့်တိုင်းပြည် မည်သည့်နိုင်ငံမဆို တက္ကသိုလ် ကောလိပ် အထက်တန်း အလယ်တန်း, မူလတန်းအထိ ပညာသင်ကြား ပို့ချပေးရသော ဆရာ ဆရာမတို့မှာ (စာမပို့ချမီ) ကြိုတင်ပြင်ဆင်ရသောအလေ့ ရှိကြ၍၊ သို့မှသာ တပည့်များအတွက် ပြည့်ပြည့်စုံစုံ ဖြစ်နိုင်မည်၊ ထို့ကြောင့်လည်း မေးမြန်းကြခြင်း ဖြစ်ပေသည်။

ဟုတ်ပါသည်၊ ဆရာတော် အရှင်ဇနကာဘိဝံသ၏ အချိန်ယူပုံမှာ နားမလည်နိုင်စရာ ဖြစ်နေပါ၏၊ ကြိုတင်ပြင်ဆင်ဖို့အချိန်က သီးခြား, ကျမ်းစာရေးဖို့ အချိန်က သီးခြားဆိုလျှင်လည်း အချိန်လောက်နိုင်မည် မဟုတ်ပါ။

သို့ဖြစ်၍ ဆရာတော် ဆောင်ရွက်နေသည်ကို ဖြေရလျှင် "ဆရာတော် ကျမ်းစာရေးသားသည် ဆိုသည်မှာ စာချခြင်းပင် ဖြစ်ပါ၏"ဟု ဖြေရပါတော့မည်။

### ကျမ်းစာအုပ်ဖြစ်၍လာခြင်း

နက်ဖြန်ပို့ချမည့် အကြောင်းအရာတို့ကို ယနေ့ကပင် ကြိုတင်၍ (တစ်နေ့တွက်) ကြည့်ရှု၏၊ ဆင်ခြင်၏၊ သုံးသပ်၏၊ မှတ်ချက်ယူ၏၊ အဓိပ္ပာယ်များကို ရေးသား၏၊ ယင်းတို့ကို စာအုပ်၏ အောက်ခြေတွင် ထည့်သွင်းရန် ဖြစ်သည်၊ စာ ၃ ဝါ ပို့ချမည်ဖြစ်လျှင် ၃ ဝါလုံးအတွက် ဤနည်းအတူ ကြည့်ရှုဆင်ခြင် သုံးသပ်၍ အဓိပ္ပာယ်များကို ရေးသားသည်၊ ဤအဓိပ္ပာယ်မှုကြမ်းကို အဖန်ဖန် အထပ်ထပ် ပြန်လည် သုံးသပ်ထားတော်မူ၏။

နောက်တစ်နေ့ စာဝါကို ပို့ချသောအခါ ဆိုင်ရာ အဓိပ္ပာယ်ကို အာရှင်း လျှာရှင်း အသံရှင်းသော ပုဂ္ဂိုလ်တစ်ပါးက စာလိုက်ပရိသတ်အား ဖတ်ပြရ၏၊ ဤသည်ပင် အဓိပ္ပာယ်ပြောပြခြင်း ဖြစ်တော့သည်၊ ကျမ်းရင်းစာကိုယ်၏ အနက်ကိုမူ ဆရာတော်က နှုတ်ဖြင့် ချပေးသွား၏၊ စာဆိုရသောပုဂ္ဂိုလ် (သို့မဟုတ်) အထူးတာဝန်ယူရသော ပုဂ္ဂိုလ်က နိဿယကို လိုက်၍ ရေးရသည်။

ယင်းရေးပြီးသားကို ဆရာတော်က ပြန်လည် စစ်ဆေးသေး၏၊ မှန်ပြီဆိုသောအခါ "အချောရေးတော့"ဟူ၍ ဆရာတော်က ခွင့်ပြုသည်၊ အားလုံး အချောရေးပြီးသောအခါ စာကိုယ်နိဿယကို အထက်မှာ တင်၊ အဓိပ္ပာယ်တို့ကို အောက်မှာ သွင်း၍ ရှင်းရှင်းကလေးနေအောင် စီမံလိုက်ရာ "ကျမ်းစာအုပ်"အဖြစ်ပေါ်ထွက်၍ လာတော့၏၊ ထို့ကြောင့် စာ ၃ ဝါကို ချပို့လျှင် ကျမ်းစာ ၃ စောင်ကို တစ်ပြိုင်နက် ရေးသား ပြုစုနေခြင်း ဖြစ်တော့သတည်း။

## နိဒါန်းမသွယ် နိဂုံးလည်း မခြယ်နိုင်ခဲ့သော ကျမ်းစာများ

### သုတ်မဟာဝါနှင့် ပဋ္ဌပကရဏ

ဆရာတော်၏ သက်တော်သည် တရွေ့ရွေ့ တဖြည်းဖြည်းနှင့် ရင့်ညောင်းတော်မူလာခဲ့လေပြီ၊ "အသက်ရှည်သမျှအတွင်းမှာ ပြီးနိုင်သမျှ ပြီးစေတော့"ဟု နောင်လာနောက်သားတို့အတွက် အဋ္ဌကထာကြီးများကို တစ်ကျမ်းပြီး တစ်ကျမ်း ခပ်သုတ်သုတ် နှင်၍ ပို့ချရင်း ဘာသာဋီကာကြီးများအဖြစ် ဖွင့်ဆိုလာခဲ့၏။

အဘိဓမ္မာပါဠိတော်သည် "ဓမ္မသင်္ဂဏီ, ဝိဘင်း, ဓာတုကထာ, ပုဂ္ဂလပညတ်, ကထာဝတ္ထု, ယမိုက်, ပဋ္ဌာန်း"ဟူ၍ ခေါင်းစဉ်အားဖြင့် ၇ မျိုးရှိခဲ့ရာ ရှေ့နှစ်မျိုးကို အဋ္ဌသာလိနီဘာသာဋီကာဟူ၍လည်းကောင်း, သမ္မောဟဝိနောဒနီဘာသာဋီကာဟူ၍လည်းကောင်း နာမည်ပေး၍ ဖွင့်ဆိုပြီးစီးခဲ့ပေပြီ။

ဓာတုကထာစသော ကျန် ၅ မျိုးကိုကား ပဉ္စပကရဏအဋ္ဌကထာ (သို့မဟုတ်) ပဉ္စပကြိုဏ် အဋ္ဌကထာဟူသော နာမည်ဖြင့် တည်ရှိနေခဲ့ရာ ယင်းကိုလည်း ဆရာတော်က "ပဉ္စပကရဏဘာသာဋီကာ" အမည်ပေးကာ ဖွင့်ဆိုခဲ့လေသည်။

### ကျမ်းအိပ်များကို နှိုးပေးခဲ့ခြင်း

ဤအဘိဓမ္မာအဋ္ဌကထာကြီးများမှာ ကျယ်လည်းကျယ်, နက်လည်းနက်, ခက်လည်းခက်သောကြောင့် လေ့ကျက် သင်ယူသူ, ပေါက်မြောက်အောင် ပို့ချသူ အစဉ်အလာကပင် နည်းပါးခဲ့၏၊ ထို့ကြောင့် ဤကျမ်းကြီးများကို ဗီရိုစာတိုက်တို့၌ အိပ်နေသလို သိပ်ထားရသဖြင့် "ကျမ်းအိပ်ကြီးများ"ဟူ၍ပင် ခေါ်စမှတ် ပြုကြသည်။

"ယခုကပင် သင်ယူ ပို့ချသူ နည်းပါးနေခဲ့လျှင် နောင်တစ်ချိန်တွင် မရှိသလောက်ပင် ရှားပါးကုန်လိမ့်မည်၊ ထို့ကြောင့် နောက်တစ်ခေတ်မှာ ချပို့သင်ယူလိုသူများ လွယ်ကူရစ်အောင်"ဟူသောရည်ရွယ်ချက်ဖြင့် ဤကျမ်းအိပ်ကြီးများကို နိုးအောင် နှိုးခဲ့ခြင်း ဖြစ်ပေသည်၊ ဤပဉ္စပကရဏအဋ္ဌကထာဋီကာကို ၁၃၃၆ ခု ဒုတိယဝါဆိုလပြည့်ကျော် ၂ ရက်နေ့တွင် စတင်၍ ချပို့ရေးသားလာခဲ့ရာ ၁၃၃၉ ခု ဝါခေါင်လဆန်း ၁၂ ရက် သောကြာနေ့, နေ့

၂ နာရီခွဲ အချိန်တွင် ချုပ်ဖို့ရေးသား အောင်မြင်ပြီးစီး သွားလေသည်၊ ၃ နှစ်နှင့် ၂၅ ရက် ကြာ၍၊ တစ်နေ့ လျှင် ၁ နာရီမျှ မှန်မှန် ချုပ်ဖို့သွားခဲ့သည်၊ ယခုအခါ အဘိဓမ္မာ အဋ္ဌကထာ အားလုံး အကုန်အစင် အောင်မြင် ပြီးစီးကုန်လေပြီ။

ဤ ပဋ္ဌာပကရဏ ၅ ကျမ်းအတွက် (ပ, ဒု, တ, စ, မ) ဟူ၍ အုပ်တွဲကြီး ၅ ခု ထွက်ပေါ်လာခဲ့ သည်။

## ခပ်သုတ်သုတ် ခရီးနှင်ခဲ့ရ၍

ဤအဘိဓမ္မာအဋ္ဌကထာကြီးများကို ရေးသား ဖွင့်ဆိုပြီးခဲ့သော်လည်း စာအုပ်ဖြစ်လာဖို့အတွက် ကား ဆရာတော်ကိုယ်တိုင်ပင် မျှော်လင့်ချက် အား နည်းခဲ့လေသည်၊ မှန်၏၊ ဤကျမ်းစာကြီးတို့သည် ယခုခေတ် ကျင်းပနေသော စာမေးပွဲများအတွက် မဟုတ်သဖြင့် စိတ်ဝင်စားသူ နည်းပါး, ပို့ချသင်ယူသူ ရှားပါးလှချေ၏၊ ထို့ကြောင့် ဤအကြောင်းအရာ နှင့်စပ်၍ တစ်ခါတုန်းက ရင်းနှီးသော တပည့်ဖြစ်သူ ဒကာထိန်ဝင်းအား ဆရာတော်က အမိန့်ရှိဖူး၏၊ "ဘုန်းကြီးမရှိရင် ဒီကျမ်းစာကြီးတွေဟာ စာအုပ်ဖြစ် ဖို့တောင် လွယ်မည်မထင်ဘူး"ဟူ၍ ဖြစ်သည်၊ ဤမျှ ညည်းညူခဲ့ရသော အဋ္ဌကထာကြီးများပါပေ။

ထို့ကြောင့်ပင် နိဒါန်းလည်း မသွယ်သေး, နိဂုံး လည်း မခြယ်သေးဘဲ, ပို၍ အရေးကြီးသော (အခြား တစ်ချိန်တွင် ခုပို့နေသော) သုတ်မဟာဝါအဋ္ဌကထာ ပြီးစီးရန်ကိုသာ ဆရာတော် အားသွန် စိတ်စိုက်နေ ခဲ့သည်၊ ဆရာတော်၏ ဘဝခရီးကား မိုးချုပ်လာခဲ့ပြီ ဖြစ်၍ ခပ်သုတ်သုတ် ခရီးနှင်နေရတော့သည်။

သုတ္တန်ပိုင်းဆိုင်ရာ သုတ်မဟာဝါအဋ္ဌကထာကို ၁၃၃၇ ခု ဝါဆိုလပြည့်ကျော် ၂ ရက်နေ့မှ စတင်၍ ချုပ်ဖို့ရင်း ဘာသာဋီကာဖွင့်ဆိုလာခဲ့ရာ ၁၃၃၉ ခု နတ်တော်လဆန်း ၁၃ ရက်(၂၃-၁၂-၇၇) သောကြာ နေ့တွင် ပြီးစီး အောင်မြင်ခဲ့လေသည်၊ ၂ နှစ်နှင့် ၅ လ ကြာ၍၊ အုပ်တွဲအားဖြင့် (ပ, ဒု, တ)ဟူ၍ ၃ တွဲ ဖြစ်ပေါ်လာသည်။

ဤသုတ်မဟာဝါဘာသာဋီကာ ချုပ်ဖို့ဖွင့်ဆိုပြီးဆုံး ချိန်တွင်ကား ဆရာတော်မှာ သိသိသာသာ ကျန်းမာ ရေး ယိုယွင်းနေလေပြီ၊ ဆရာဝန်ကြီးများဖြင့် စစ် ဆေးနေရသော အချိန်ဖြစ်၏၊ ထို့ကြောင့် ဤကျမ်း စာ၌လည်း နိဒါန်းမသွယ် နိဂုံးများ မခြယ်နိုင်ခဲ့ပေ။

## စောင့်မျှော်ငံ့လင့်နေကြသယောင်

ရှေးတုန်းကဆိုလျှင် ဘာသာဋီကာဖွင့်ဆို၍ ကျမ်းစာတစ်အုပ်ပြီးတိုင်း, တစ်အုပ်ပြီးတိုင်း ဆရာ တော်က နိဒါန်း နိဂုံး ခြယ်မှုန်းခဲ့၏၊ နိဒါန်းတွင် ကျမ်း ဆရာ၏ ရည်ရွယ်ချက်, ကျမ်းဆရာ၏ စေတနာ၊ နိဂုံးမှာမူ ကျမ်းဆရာ၏ အတ္ထုပ္ပတ်, ကျမ်းဆရာ၏ ဆုတောင်းတို့ဖြင့် စုပေါင်းခြယ်မှုန်းကာ ဖတ်ချင်စရာ ဖြစ်အောင် မွမ်းမံပေးမြဲ ဖြစ်သည်။

နိဒါန်းအခြေခံကို ခြယ်မှုန်းပေးခြင်းသည် ကျမ်း စာ၏ ရပ်တည်ရာ ဖိနပ်ဝတ်ဆင်ပေးသလို ဖြစ်၏၊ နိဂုံးကို မြယ်မှုန်းပေးခြင်းကား ထိုကျမ်းစာမျက်နှာ လန်းအောင် ပန်းပန်ပေးသလို ဖြစ်တော့သည်။

ထို့ကြောင့် ဤကျမ်းစာနှစ်ဆူတို့က "မိမိတို့အား လည်း ထိုသို့ ခြယ်မှုန်းပေးမည်လား"ဟု စောင့်စား နေသယောင် "ဘယ်တော့ အလှည့်ကျမည်လဲ"ဟု အားခဲငံ့လင့်နေသယောင် ဖြစ်တော့သည်၊ သို့သော် သူတို့၏ ဆရာသခင် အရှင်မြတ်ကား သူတို့၏ ဆန္ဒကို ပြည့်ဝအောင် ဖြည့်တင်းသွားနိုင်စွမ်း မရှိခဲ့ ချေတကား။

**မှတ်ချက်။** ။ ယခုအခါတွင်ကား မဟာဂန္ဓာရုံ မဟာ နာယကဆရာတော်များ၏ အစီအမံ, ဆိုင်ရာ ဒါယကာ ဒါယိကာမများ၏ အကူအညီ, ဆရာတော်၏ ညည်းညူသံကို ကိုယ်တိုင် နာခံခဲ့ရသော ဒကာထိန်ဝင်း၏ ကြောင့်ကြစိုက်မှု ဤသုံးခုကို ပေါင်း လိုက်သောအခါ "စာအုပ်ဖြစ်ဖို့ မလွယ်ဘူး"ဟု ဆရာတော် ညည်းညူခဲ့ရသော စာမူတွေအားလုံး (ဝိနည်း သုတ္တန် အဘိ ဓမ္မာ ဘာသာဋီကာ အားလုံး) လက်ရေးမူရှိသမျှမကျန် ကြည်ညိုဖွယ် စာအုပ်ကြီးများ အဖြစ်သို့ ရောက်ကုန်ကြရ လေပြီ၊ ဝမ်းသာ ကြည်နူးဖွယ်ချည်း ဖြစ်ကြ၏။

# ကျမ်းတစ်ဆူပြီးတိုင်း အမျှဝေခြင်း ပူဇော်ခြင်း

## ကျေးဇူးဆပ်၍ မကျေနိုင်သူနှစ်ဦး

ဆရာတော်သည် မိဘဂုဏ်ကျေးဇူး၊ ဆရာသမား ဂုဏ်ကျေးဇူး၊ ရတနာသုံးပါး ဂုဏ်ကျေးဇူးတို့ကို အထူးသိတတ်သူ ဖြစ်၏၊ ရှင်တော်ဗုဒ္ဓကလည်း "သိရမည်"ဟု မိန့်တော်မူသည်၊ ကိုယ်တော်တိုင်ပင် မိဘတို့ကို ဦးစားပေး၍ ရှေ့တန်းတင်တော်မူခဲ့၏။

မိခင်ကျေးဇူးဆပ်ဖို့ရာ တာဝတိံသာသို့ လိုက်၍ အဘိဓမ္မာတရား ဟောကြားသည်ကား အထူးခြား ဆုံးသော သာဓကပင် ဖြစ်တော့သည်၊ ထို့ပြင်လည်း ငါးရာ့ငါးဆယ်ဇာတ်တော်များ၌ မိဘကို အလေး အမြတ်ထားပုံ၊ ပြုစုယုယပုံ၊ ရှေ့တန်းတင်ပုံ၊ မိဘ တို့၏ ကျေးဇူးများပုံတို့ကို မကုန်နိုင်အောင် ဟောပြ ထား၏၊ အင်္ဂုတ္တိုရ်ပါဠိတော် ဒုကနိပါတ်၌ မိဘတို့ကို ပခုံးထက်မှာ တင်၍ အသက်ရာတိုင် လုပ်ကျွေးပြုစု လည်း "ကျေးဇူးဆပ်၍ မကျေနိုင်သူ ပုဂ္ဂိုလ်နှစ်ဦး" ဟူ၍ပင် ရှင်တော်ဗုဒ္ဓက ဟောပြထားတော်မူ၏၊ ဤ ဒေသနာကို ရည်ရွယ်၍ပင် အရှင်မဟာရဋ္ဌသာရက ကိုးခန်းပျို့၌ ...

**"မိကိုလက်ယာ၊ ဘကိုလက်ဝဲ၊ ကိုင်ချီစွဲလျက်၊ ပခုံးထက်ဝယ်၊ အသက်ရာတိုင်၊ မမုန်းနိုင်ဘဲ၊ ဆုံးတိုင် ဝပ်တွား၊ လုပ်ကျွေးပြုစုလည်း၊ မွေးဖွားပိုက်ကြိုး၊ ရှေးတင်ဖူးသည့်၊ ကျေးဇူးလှယ်ပြိုင်၊ မဆပ်နိုင်ခဲ့"**ဟူ၍ ဖွဲ့နွဲ့သီကုံးတော်မူခဲ့ခြင်း ဖြစ်ပေသည်။

## ကျေးဇူးကို ကျေးဇူးမှန်းသိသူ

ထို့ပြင် ရှင်တော်ဗုဒ္ဓက ဟောပြထားသေး၏၊ "မိဘတို့ဆိုတာ (**ဣမဿ လောကဿ ဒဿေတာရော**) သားသမီးများအား ဤလောကကြီးကို ပြပေးသူများပေတည်း၊ ဤလောကကြီးအတွင်း၌ ရပ်တည် ရှုမြင်နိုင်ခွင့် ရအောင် ထုတ်ဆောင်၍ ပြပေးသူများမှာမိဘတို့ပေတည်း"ဟု ဟောမိန့်ထား ပေသည်၊ ဆရာတော် အရှင်ဇနကာဘိဝံသက ဤ ဟောပြချက် ဒေသနာတို့ကို သဘောကျတော်မူ၏။

"ဟုတ်ပေသည်၊ မိမိကို ဤဘုရားသာသနာတော် ကြီးနှင့် တွေ့ရအောင်၊ ဤဘုရားသာသနာတော်ကို ထမ်းဆောင်နိုင်ခွင့်ရအောင် ဤလောကကြီးအတွင်း သို့ ချပေးသူများမှာ ဤမိဘနှစ်ပါးတို့ပင်တည်း၊ ကျေးဇူးကြီးမားကြပေ၏"။

ဤသည်တို့ကို သိ၍ ဆရာတော် အရှင်ဇနကာ ဘိဝံသလည်း မိဘတို့၏ ဂုဏ်ကျေးဇူးများကို လေးစား မြတ်နိုး တန်ဖိုးထားသူ ဖြစ်ခဲ့ရလေသည်။

ထို့ကြောင့်ပင် ဆရာတော်က ကျမ်းစာတစ်ဆူ ချုပ်ဆိုရေးသား၍ ပြီးဆုံးတိုင်း-**"ဤကောင်းမှု၏ အဖို့ကို အမိ အဘ နှစ်ဦးတို့အား အထူးအားဖြင့် အမျှပေးဝေပါ၏"** ဟူ၍ မတိုးမကျယ် အမျှဝေတော်မူ၏။

ဤသို့ အသံထွက်ကာ အမျှဝေသည်ကို စာဆို စာလိုက်နေကြသော အနီးအနားရှိ သံဃာများ ကြား ကြရပေသည်၊ ထို့နောက် ကျမ်းစာအုပ်တိုင်း၏ နိဂုံး တွင် ပါလေ့ရှိသော...

"သမ္ဗုဇ္ဈာမိ ထေရာနံ" အစရှိသည်ဖြင့် "ဆရာ သမားတို့အား ကန်တော့ ပူဇော်ပါ၏"ဟူ၍လည်း ကောင်း၊ ဤကျမ်းစာဖြင့် ဗုဒ္ဓမြတ်စွာ သာသနာ တော်ကြီးအားလည်းပူဇော်ပါ၏"ဟူ၍လည်းကောင်း ကျေးဇူးဆပ်လေသည်။

ဤသို့ ကျေးဇူးစကား ဆိုနိုင်ခြင်း၊ ကျေးဇူးအများ ဆပ်နိုင်ခြင်းကား ကျေးဇူးတရားကို ကျေးဇူးမှန်း သိတတ်သူ ဖြစ်သောကြောင့်ပေတည်း။

## ရှေးဟောင်းနှောင်းဖြစ်ကလေးများ

### တွေးခဲ့ စဉ်းစားခဲ့ဖူးတယ်

ယနေ့ နံနက်ခင်း ဩဝါဒပေးရာတွင် ကျမ်းစာတွေ အမြောက်အမြား ပြီးစီးခဲ့ပုံနှင့်စပ်၍ မိန့်မြွက်တော်မူနေသည်၊ ဆရာတော်က သူ့ဘဝတစ်ခုလုံးကိုလည်း နောက်ပြန်တွေး၍ ရေးရေးမြင်နေဟန်တူပါ၏၊ ထို့ကြောင့် ငယ်ငယ်က ရှေးဖြစ်ဟောင်းကလေးတွေကို ပြန်ပြောင်း၍ မိန့်နေသည်။

"ဘုန်းကြီးငယ်ငယ် ကျောင်းသားကလေးအရွယ်တုန်းကပဲ, စဉ်းစားဖူးတယ်၊ "ငါဟာ သာသနာ့ဘောင်မှာ နေရကောင်းမလား, လူ့ဘောင်မှာ နေရကောင်းမလား"လို့ နောက်တော့ "ကုသိုလ်များများရတဲ့နေရာမှာ နေမယ်"လို့ ဆုံးဖြတ်ခဲ့ပါတယ်။

အဲဒီနောက် လူကြီးတွေက "မင်းကြီးလာရင် ဘာလုပ်မလဲ"လို့ မေးတဲ့အခါမှာလဲ "ကုသိုလ်များများရတဲ့ အလုပ်ကို လုပ်မယ်"လို့ပဲ ဖြေခဲ့ပါတယ်။

နောက်တော်တော်ကြာတော့ ရဟန်းခံခါနီးမှာ တစ်ခါ စဉ်းစားပြန်တယ်၊ "သာသနာ့ဘောင်မှာ နေရကောင်းမလား, သူများတွေလို လူ့ဘဝမှာ ပျော်ပျော်ပါးပါး နေရ ကောင်းမလား"လို့၊ ဒီတစ်ခါ စဉ်းစားရတာ ပိုပြီး စိတ်လှုပ်ရှားမယ်ထင်တယ်။

နောက်တော့ စေ့စေ့တွေးပြီး ပိုင်ပိုင် ဆုံးဖြတ်လိုက်ပါတယ်၊ "ငါဟာ အောက်တန်းမကျတဲ့ နေရာမှာ နေမယ်"လို့၊ သက်နံးဝတ်နှင့်ငါ အစွမ်းအစရှိတယ်၊ သက်နံးဝတ်နဲ့နေရင် အောက်မကျနိုင်ပါဘူး"လို့၊ အဲလိုနဲ့ လာခဲ့တာ၊ ရည်ရွယ်ချက် ၂ မျိုးအနက် ပထမရည်ရွယ်ချက်က သန့်ပါတယ်"။

(၁၃၂၇ ခု ပြာသိုလကွယ်နေ့ ဩဝါဒ)

### ပုန်းကွယ်နေတဲ့ အစွမ်းသတ္တိများ

ဤသို့လျှင် ဆရာတော်ကြီးက သူငယ်ငယ်က တွေးခဲ့ ဆုံးဖြတ်ခဲ့ပုံကလေးတွေကို ပြန်ပြောင်း၍ ပြောပြနေတော့၏၊ ထို့ပြင် ဘဝရေဆန်ခရီးတွင် လျှော်ခတ်ခဲ့ရပုံတို့ကိုလည်း မိန့်မြွက်နေပြန်ပါသည်။

"ဘုန်းကြီးကို အခုလောက် ကျမ်းစာတွေ အများကြီးရေးနိုင်လို့ တချို့က အံ့ဩကြမှာပေါ့၊ ခုချိန်မှာ ဘုန်းကံတွေကလဲ ကြီး, ဂုဏ်သတင်းကျော်စောမှုတွေကလဲ ပြန့်, နိုင်ငံအနှံ့လို ဖြစ်နေတော့ အံ့ဩကြမှာပေါ့။

ဒါအံ့ဩစရာ မဟုတ်ပါဘူး၊ ဒါတွေက ဖြစ်ပေါ်လာတတ်တဲ့ အကျိုးတွေပဲ၊ တကယ် အံ့ဩရမှာက အဲဒီ အကျိုးတွေ ဖြစ်ပေါ်လာအောင် ကြိုးစားခဲ့ရတဲ့ လုံ့လ, ထားခဲ့ရတဲ့ စေတနာ, ယုံကြည်မှု သဒ္ဓါ, စောင့်စည်းရတဲ့ သိက္ခာ, ရှေ့နောက်ထောက်ဆတဲ့ ပညာ, မလစ်လပ်တဲ့ သတိ စသည်တို့သာ ဖြစ်ပါတယ်၊ ဒီအကျိုးတွေရဲ့ နောက်ကွယ်မှာ ပုန်းနေတတ်တဲ့ အဲဒီ အစွမ်းသတ္တိကလေးတွေကသာ အံ့ဩစရာပါ"ဟူ၍ ဖြစ်ပါသည်။

### ဗာဟီယမများဘဲ သင်ကြားပို့ချမှု

ဤသို့လျှင် မိမိဘဝကို မိမိသုံးသပ်ပြီးနောက် ဆရာတော်က သူလက်လှမ်းမီရာ ဆရာတော်ကြီးတချို့၏ အခြေအနေကိုပါ သုံးသပ်တင်ပြနေပြန်သည်၊ နောင်လာနောက်သားတို့ စဉ်းစားဖို့ရအောင် ရည်ရွယ်ဟန် တူပါ၏။

"သာသနာတော်မှာ အင်မတန် ထက်မြက်တဲ့ ဆရာတော်တွေ ပေါ်ခဲ့ပါတယ်၊ အဲဒီအထဲက လယ်တီဆရာတော်ဆိုရင် တရားဟော စာသွားဟန်တူရဲ့၊ မန်လည်ဆရာတော်ကျတော့လဲ... ချောင်ကျလွန်းနေပြန်ရော၊ ရေစကြိုဆရာတော်ဘုရားကြီးတို့, ပခုက္ကူဆရာတော်ဘုရားတို့ ဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးတို့က စာချသက်သက်ပဲ၊ ဗာဟီယကိစ္စမများဘူး၊ ဒါကြောင့်မို့ တပည့်တွေ အများကြီးကျန်ရစ်တာ"ဟူ၍ ထောက်ပြနေပါသည်။

သာသနာတော် အရှည်ခံ၍ တည်တံ့သန့်ရှင်း ပြန့်ပွားဖို့ဆိုလျှင် ပရိယတ္တိသာ အခြေခိုင်ကြောင်း ပြလိုရင်း ဖြစ်ဟန် တူပါ၏၊ သို့ရာတွင် "ဤပရိယတ္တိ မျှဖြင့် ဘုရားက ကျေနပ်မည် မဟုတ်သေး"ဟူ၍ တစ်ခါတလေ မိန့်တတ်သေးသဖြင့်... ပရိယတ် ပဋိပတ် နှစ်မျိုးလုံး ပါစေလိုဟန် တူပါသည်၊ ဆရာတော်ကား သူကိုယ်တိုင် ဗာဟီယကိစ္စ မများဘဲ ကျမ်းစာတို့၌သာ စိတ်ကို နှစ်ထားပြီး ကြိုးစားခဲ့သောကြောင့် ကျမ်းစာတွေ မြောက်မြားစွာ ပြီးစီးပုံနှင့်စပ်၍ မိန့်မြွက်နေခြင်း ဖြစ်သည်။

## တစ်ခုသော နံနက်ခင်း ဩဝါဒတွင်

**ဝိနယော အာသယော မယှံ,**
**ဝိနယော ဌာနစင်္ကမံ၊**
**ကပ္ပေမိ ဝိနယေ ဝါသံ,**
**ဝိနယော မမ ဂေါစရော။** တဲ့. . .

"ဒီဂါထာဟာ ဥပါလိထေရာပဒါန်မှာ လာတာ၊ ဝိနည်းတေဒဂ်ရ အရှင်ဥပါလိမထေရ်ရဲ့ ဥဒါန်းကျူးရင့်တဲ့ ဂါထာပေါ့။

**ဥဒါန်း**ဆိုတာ စိတ်ထဲ ချမ်းချမ်း မြေ့မြေ့ ရှိလို့ ပီတိအဟုန်အရှိန်နဲ့ ဝမ်းထဲကလျှံတက် နှုတ်က အလိုလို ထွက်လာတာမျိုးကို ခေါ်တာ"။

## ဝိနည်းဟာ နေထိုင်ရာကျောင်း

ဆရာတော်သည် ယနေ့ နံနက်ခင်း ဩဝါဒပေးရာတွင် ဤသို့ စတင် ချီလာနေသည်ကို ထောက်ဆ၍ "ဝိနည်းအကြောင်းအရာကို ပြောတော့မည်" ဟု ကြိုတင်ခန့်မှန်းနိုင်တော့၏၊ ဆက်လက်၍ အမိန့်ရှိနေပြန်သည်။

"သူ့အဓိပ္ပာယ်က - ဝိနယော-အာဏာတော်မြတ်, မိန့်တော်မှတ်၍, ပညတ်ထုတ်ဖော်, ဝိနည်းပိဋကတ်တော်သည်၊ မယှံ-ငါ၏၊ အာသယော-သင်ယူပို့ချ, နေ့နေ့ညဥ့်, နိစ္စနေရာ, ကျောင်းတော်ကြီးပါပေတည်း"တဲ့။

အရှင်ဥပါလိက ဝိနည်းပိဋကတ်တော်ကို "မိမိရဲ့နေရာကျောင်းလို" သဘောထားတာတဲ့၊ ဘယ်လိုလဲဆိုတော့ ကျောင်းထိုင်ပုဂ္ဂိုလ်ဟာ ကိစ္စရှိလို့ တခြားနေရာကို ခေတ္တခဏ သွားရပေမယ့် အချိန်ကျရင် ကိုယ့်ကျောင်း ကိုယ်ပြန်လာ, ကိုယ့်ကျောင်းမှာသာ အနေများသလိုပဲတဲ့။

အရှင်ဥပါလိဟာလဲ ဝိနည်းပိဋကတ်ကို သင်ယူခြင်း, ပို့ချခြင်း, အနက်အဓိပ္ပာယ်ကို ကြံစည်ခြင်း, အာဂုံနှုတ်တက် အရကျက်၍ ဆောင်ရွက်ခြင်း, စာပြန်သလို ရွတ်အံခြင်းအားဖြင့် ဝိနည်း၌သာ စိတ်ကို ချထားပြီး အနေများသတဲ့၊ နေထိုင်ရာကျောင်းလို သဘောထားတယ်ဆိုတာ ဒါပေါ့။...

## ရပ်တည်ရာနှင့် စင်္ကြံလည်းဟုတ်

ဝိနည်းကို နေထိုင်ရာ ကျောင်းလိုမျှသာလားဆိုတော့ မကသေးဘူးတဲ့၊ စင်္ကြံလိုလဲ သဘောထားသေးသတဲ့၊ တော်တော်ကြည်ညိုစရာကောင်းတယ်၊ အတုယူဖို့လဲ ကောင်းတယ်၊ ဦးပဥ္စင်းတို့ ကိုရင်တို့ အတုယူစေချင်လို့ ပြောနေတာ၊ ဘယ်လိုလဲဆိုတော့

"ဝိနယော-ကိုယ်နှုတ်နှစ်ထွေ, စောင့်စည်းစေဖို့, ဥပဒေသွန်ပြ, ပိဋကဝိနည်းတော်သည်၊ မယှံ-ငါ၏၊ ဌာနစင်္ကမံ-ရပ်ရင်း သွားရင်း, မှတ်သားခြင်းဖြင့်, မယွင်းဌာနေ, စင်္ကြံတော်ကြီးပါပေတည်း"တဲ့။

အရှင်ဥပါလိဟာ ရပ်နေတုန်းမှာပဲဖြစ်စေ, သွားနေတုန်းမှာပဲဖြစ်စေ ဝိနည်းပိဋကတ်ကိုသာ ရွတ်ဆိုနေတယ်၊ စဉ်းစားနေတယ်၊ ပို့ချနေတယ်တဲ့၊ ဒါကြောင့် ဝိနည်းဓိုရ် အရှင်ဥပါလိအတွက် ဝိနည်းပိဋကတ်တော်သည် ရပ်တန့်ရာ ဌာနလဲ ဖြစ်တယ်, လမ်းလျှောက်ရာ စင်္ကြံလဲ ဖြစ်တယ်တဲ့ တော်တော်ကြည်ညိုဖို့ကောင်းတယ်။

## ထိုင်စရာ အိပ်စရာလို့လဲ သဘောထား

ရှေ့ဆက်နားထောင်ကြပါဦး, ဘယ်လောက်များ လေးစားစရာကောင်းသလဲဆိုတာ၊ အရာရာမှာ သူ့အဖို့ ကိုယ်ကျင့်ဝိနည်းချည်းပဲ၊ ဒါကြောင့်လဲ မြတ်စွာဘုရားကိုယ်တော်မြတ်က ဝိနည်းအရာ ဧတဒဂ်ထားတော်မူတာပဲ၊ ဧတဒဂ်ဆိုတာ (ဧတဒဂ္ဂ) ပါဠိက လာတာ၊ (ဧတံ+အဂ္ဂ)လို့ ပုဒ်ခွဲရတယ်၊ "ဤသူ+အသာဆုံး"လို့ အဓိပ္ပာယ်ရတာပေါ့၊ ဝိနည်းအရာမှာ အသာဆုံးလို့ ဆိုလိုတယ်။

"အဟံ-ငါသည်၊ ဝိနယေ-ရှင်တော်ဘုရား, ကရုဏာထား၍,ဟောကြားမိန့်ဖော်, ဝိနည်းဒေသနာတော်၌၊ ဝါသံ-သင်ရင်း ကျင့်ရင်း, ပို့ချခြင်းဖြင့်, အလျင်းပုံသေ, အမြဲနေခြင်းကို၊ ကပ္ပေမိ-သူတော်တို့ ထုံး, မပြတ်သုံး၍, နှလုံးကြည်သာ, ပြုကျင့်ပါ၏"တဲ့။

အရှင်ဥပါလိဟာ ထိုင်နေစဉ်မှာရော, လျောင်းနေစဉ်မှာရော ဝိနည်းပိဋကတ်ကိုပင် ရွတ်အံမှု, စဉ်းစားမှု, ပို့ချမှုတို့ကို ပြုနေသတဲ့၊ ဒါကြောင့် ဝိနည်းဟာ အရှင်ဥပါလိအတွက် ထိုင်စရာ အိပ်စရာ တစ်မျိုးလဲ ဖြစ်နေပါသတဲ့။...

## အာဟာရဖြည့်ရာ စားကျက်နဲ့လဲ တူ

ပြီးတော့ ရှိသေးတယ်၊ သူဘယ်လိုသဘောထား သလဲဆိုတာ, အလွန်အားကျစရာ ကောင်းပါတယ်၊ ဝိနည်းကိုပင် အစာအာဟာအဖြစ် အောက်မေ့သတဲ့၊ ဝိနည်းကိုပင် ကျက်စားရာ "စားကျက်"အဖြစ် ခံယူ သိမ်းပိုက်ထားသတဲ့၊ ဒါကြောင့်-

"ဝိနယော-စာရိတ္တနှင့်, ဝါရိတ္တခြံ, သီလစုံအောင်, ဖုံဖုံပညတ်, ဝိနည်းပိဋကတ်တော်သည်၊ မမ - သာသနာ့ဝန်ဆောင်, များထိပ်ခေါင်ဝယ်, ပါအောင်ကျင့်လို့, ဤငါ့ကိုယ်၏၊ ဂေါစရော-အာဟာရမြတ်, ဩဇာဓာတ်ကို, မပြတ်ဖြည့်ကာ, ကျက်စားရာလည်း ဖြစ်ပါပေသတည်း" တဲ့။

"ဂေါစရ"ဆိုတဲ့ပုဒ်က မူလအစတုန်းကတော့ "နွားစားကျက်"လို့ အဓိပ္ပာယ်ရတယ်၊ နောက်တော့ အဲဒါနှင့် အလားတူတဲ့ လူတို့ရဲ့ အာဟာရအတွက် ကျက်စားရာ(ကျင်လည်ရာ)အရပ်ကိုလဲ "စားကျက်" လို့ ခေါ်လိုက်တာပါပဲ၊ အဲဒီ ဥပမာအတိုင်း အရှင်ဥပါလိဟာ ဝိနည်းပိဋကတ်ကို ဆွမ်းဘုဉ်းပေးရင်း မှာတောင် နှလုံးသွင်း စဉ်းစားနေတာတဲ့။

ဒါ့ကြောင့် ဝိနည်းပိဋကတ်ဟာ အရှင်ဥပါလိ အတွက် အာဟာရဓာတ် ဖြည့်ရာ စားကျက်လဲ ဖြစ်ပါတယ်တဲ့၊ ကဲ-ဘယ်လောက် လက်အုပ်ချီဖို့ ကောင်းသလဲလို့ ဘုန်းကြီးတို့ တစ်တွေ, ဦးပဉ္ဇင်းတို့ တစ်တွေရဲ့ခေါင်းပေါ် အရှင်ဥပါလိကို အမြဲတင်ထားဖို့ ကောင်းတယ်၊ ဒါဟာ သူ့သန္တာန်မှာ ဝိနည်းတွေ ရှိနေလို့, သီလတွေ ရှိနေလို့, ကိုယ်ကျင့်တွေ ရှိနေလို့ ပြောတာ။

## ထိပ်ဆုံးသို့ ရောက်စေနိုင်တာ သီလ

အရှင်ဥပါလိဟာ ဝိနည်းနှင့်ပတ်သက်လို့လာရင် သာသနာမှာ ခေါင်ထိပ်သို့ ရောက်သွားတယ်၊ ခေါင်ထိပ်နေရာမှာ ရှိတယ်၊ ဒါ့ကြောင့် ဘုရားက ဧတဒဂ်ဘွဲ့ထူးပေးရတာပဲ၊ ဧတဒဂ်ဘွဲ့ထူး ပေးရလောက်အောင် ခေါင်ထိပ်ရောက်သွားတာဟာလဲ ဝိနည်းကို အပြည့်အဝ ကျင့်သုံးလို့၊ ဒါဟာ အကြောင်းရင်းပဲ။

မူလပထမ အစတုန်းကဆိုရင် အရှင်ဥပါလိဟာ မင်းသား ၆ ယောက်ရဲ့ နောက်တော်ပါ အလုပ်အကျွေးကလေးပါ၊ သူ့အရှင်သခင် မင်းသား ၆ ယောက်တို့ရဲ့ ဆံမုတ်ဆိတ် ကျင်စွယ်တို့ကို ရှင်းလင်းသုတ်သင် ပေးရတဲ့ ဆတ္တာသည်ကလေးပဲ။

ဒါပေမဲ့ အခုလို ဝိနည်းကိုယ်ကျင့်သီလကို အပြည့်အဝ ခေါင်ထိပ်ရောက်အောင် ဖြည့်ကျင့်လိုက်တော့ အခုနတုန်းက မင်းသား ၆ ယောက်က ဖြစ်လာတဲ့ ရဟန်း ၆ ပါးကပါ တလေးတစား ဦးထိပ်ထားရတဲ့အဖြစ်သို့ ရောက်လာရတော့တာပဲ၊ ကဲ-ဒါဆိုရင် အရှင်ဥပါလိ အမြင့်ဆုံးနေရာသို့ ရောက်လာရခြင်းအကြောင်းဟာ ဝိနည်းပေါ့၊ ကိုယ်ကျင့်သီလတွေပေါ့၊ အမျိုးမြတ်ခြင်း၊ အမျိုးနိမ့်ခြင်းဆိုတာတွေတောင် မဆိုင်တော့ဘူး။

ဦးပဉ္ဇင်းတို့ ကိုရင်တို့ တွေ့ကြပြီလား၊ ဝိနည်းဟာ ဘယ်လောက် ဖြည့်ကျင့်ဖို့ ကောင်းသလဲ, ကိုယ်ကျင့်သီလကို လုံခြုံအောင် ဘယ်လောက် ကျင့်သုံးဖို့ ကောင်းသလဲဆိုတာ။...

## လဇ္ဇီစာရင်းဝင်ဖြစ်ဖို့ ကြိုးစားပါ

"ဝိနည်းပိဋက"ဆိုတာ ဘုရားရှင်တစ်ဆူ တစ်ဆူ ပွင့်တော်မူလာမှ ပေါ်ထွန်းရတဲ့ တရား၊ အဲဒီ တရားတို့ဖြင့် ဟောဖော်ညွှန်ပြအပ်တဲ့ အနက်အသားဟာ ရဟန်းတော်များ ကျင့်သုံးဖို့ သီလသိက္ခာပဲ။

အဲဒီ သီလသိက္ခာတွေဆိုတာ လူပုဂ္ဂိုလ်တွေ စောင့်ထိန်းနေကျ ငါးပါးသီလ, ရှစ်ပါးသီလ, ဆယ်ပါးသီလတို့ထက် အရေအတွက်အားဖြင့်လဲ သာတယ်၊ ကျင့်သုံး စောင့်စည်းရပုံ အသေးစိတ်အားဖြင့်လဲ သာတယ်၊ ပိုတယ်၊ ဒါ့ကြောင့် ဝိနည်း ပိဋကထဲမှာ ပညတ်အပ်တဲ့ သီလတွေကို "အဓိသီလ"လို့ ခေါ်ရတာ။

အဲဒီ အဓိသီလတွေကို မကျိုးမပေါက်အောင် စောင့်ရှောက်နေတဲ့ ရဟန်းဟာ မကောင်းမှု ဒုစရိုက်တွေကို ပြုရမှာ ရှက်တတ်တယ်။

ဒါ့ကြောင့် သူ့ကို "လဇ္ဇီ"လို့ ခေါ်ရတယ်၊ "မကောင်းမှု ပြုရမှာ ရှက်တတ်သူ"လို့ အဓိပ္ပာယ်ရတာပေါ့။

တကယ်တော့ အဲဒီလို လဇ္ဇီပုဂ္ဂိုလ်တွေ ဖြစ်မှသာ ဗုဒ္ဓမြတ်စွာ သာသနာတော်ကို တကယ်တမ်း စောင့်ရှောက်နိုင်တာပဲ၊ ဒါ့ကြောင့်လဲ သင်္ဂါယနာတင် ရဟန္တာအရှင်မြတ်ကြီးတို့က "အနာဂတေ သာသနံ လဇ္ဇီ ရက္ခိဿတိ"-နောင်တစ်ချိန်မှာ သာသနာတော်ကို လဇ္ဇီပုဂ္ဂိုလ်များ စောင့်ရှောက်ရစ်လိမ့်မည်"လို့ မိန့်တော်မူခဲ့ကြခြင်း ဖြစ်ပေတာပဲ။

ကိုရင်တို့ ဦးပဥ္စင်းတို့ အဲဒီ လဇ္ဇီစာရင်းဝင် ဖြစ်အောင် ကြိုးစားကြရမယ်, ကြိုးစားကြပါ။

## သီလဟာ မဂ်ဖိုလ်ရဖို့အကြောင်း

အခုလို လဇ္ဇီပုဂ္ဂိုလ်ဖြစ်အောင် တိုက်တွန်းနေရတာက သံသရာဘေးအတွက် စိတ်အေးရအောင် လို့ပါ။

(က) သီလလုံခြုံလို့ လဇ္ဇီပုဂ္ဂိုလ်ဖြစ်ပြီဆိုရင် အပါယ်ဘေးမှဝေးဖို့ သေချာတဲ့အတွက်(အဝိပ္ပဋိသာရလို့ခေါ်တဲ့) နှလုံးသာရွှင်မှု ဖြစ်ရတော့တာပဲ၊

(ခ) နှလုံးသာရွှင်မှုဖြစ်ရင် ဝမ်းမြောက်မှုအနုစားပါမောဇ္ဇ ဖြစ်တော့တာပဲ၊

(ဂ) ပါမောဇ္ဇဖြစ်ရင် ဝမ်းမြောက်မှု အရင့်စား ပီတိလဲ ဖြစ်တော့တာပဲ၊

(ဃ) ပီတိဖြစ်ရင် ကိုယ်စိတ်နှစ်ပါး ငြိမ်းချမ်းခြင်း ပဿဒ္ဓိလဲ ဖြစ်တော့တာပဲ၊

(င) ပဿဒ္ဓိဖြစ်ရင် ကိုယ်စိတ်နှစ်ဖြာ ချမ်းသာအေးမြ သုခဖြစ်မှာ သေချာတယ်၊

(စ) သုခဖြစ်ရင် စိတ်ဟာ ဟိုအာရုံ သည်အာရုံ အဖုံဖုံသို့ မသွားတော့ဘဲ တရားအာရုံ၌သာ တည်ကြည်နေတဲ့ သမာဓိ ဖြစ်မှာ ဧကန်ပဲ၊

(ဆ) သမာဓိဖြစ်ရင် မိမိရဲ့ ခန္ဓာပေါ်မှာ (အနိစ္စ ဒုက္ခ အနတ္တခန္ဓာပါတကားလို့) ဟုတ်တိုင်းမှန်စွာ သိတဲ့ ယထာဘူတဉာဏ် ဧကန်လွယ်လွယ်ကလေး ဖြစ်မယ်။

(ဇ) ယထာဘူတဉာဏ် ရင့်သန်လာပြီဆိုရင် ဝဋ်ဒုက္ခ၌ ငြီးငွေ့တဲ့ နိဗ္ဗိဒါဉာဏ် ဖြစ်မယ်။

(ဈ) နိဗ္ဗိဒါဉာဏ်ဖြစ်ရင် အဲဒီကမှ ဆက်၍ အထက်မဂ် ဖိုလ်တို့ တိုင်အောင် ပိုင်ပိုင်ကြီး ရဖို့ သေချာသွားပြီ။

ဒါကြောင့် ဦးပဥ္စင်းတို့ ကိုရင်တို့ သီလကို "သီလလောက်မျှသာ"လို့ မယူဆဘဲ "မဂ် ဖိုလ်ရဖို့ အကြောင်း"လို့ ကောင်းကောင်းကြီး သဘောပေါက်ပါ။

သဘောပေါက်ပြီးတော့ ကျေကျေနပ်နပ်ကြီး ဖြည့်ကျင့်ကြပါလို့ ဘုန်းကြီးက တိုက်တွန်းနေရတာ။

## သီလ သီလနှင့် ပြောလေ့ရှိ

ဆရာတော်ကား "သီလ သီလ"နှင့် အမြဲတမ်းလို မိန့်မြွက်တတ်ပါ၏။ ဒကာ ဒကာမများက အနားသို့ သွား၍ ချဉ်းကပ်လျှင် "ငါးပါးသီလ လုံကြပစေ"လို့ သတိပေးတတ်၏။ သာမဏေများဆိုလျှင် "ဆယ်ပါး သီလ လုံအောင်သတိထား"တဲ့၊ ရဟန်းများဆိုပါက "ရဟန်းသီလတွေ ဖြူကြပစေ"ဟု မိန့်တတ်သည်။

အရှင်ဥပါလိက ဝိနည်းသည်ပင် ကျောင်း, ဝိနည်းသည်ပင် အိပ်ရာ, ဝိနည်းသည်ပင် သွားစရာ, ဝိနည်းသည်ပင် အစားအစာဟူသကဲ့သို့ ဆရာတော် အရှင်ဇနကာဘိဝံသကလည်း အရာရာတွင် "သီလ သီလ သီလ"ဟူ၍သာ မိန့်မြွက်တတ်ပါသည်။

တစ်ခါသော် ပန်တျာကျောင်းဆရာကြီးတစ်ဦးက ဝေဖန်၍ လျှောက်ထားဖူး၏၊ "ဆရာတော်ဟာ သီလလုံခြုံဖို့ကို လိုတယ် ပြောလေ့ရှိတယ်၊ တပည့် တော်ဟာ ဒီဆရာတော် အရှင်ဇနကာဘိဝံသကို ကြည်ညိုလွန်းလို့ မကြာ မကြာ ဒီကျောင်းတိုက်ကို ရောက်တတ်ပါတယ်။

ရောက်တိုင်းလဲ သီလလုံခြုံဖို့ကိုပဲ ပြောလေ့ရှိ တာပဲ, ဒီတော့ တပည့်တော်က စဉ်းစားမိပါတယ် ဘုရား၊ တို့ပန်တျာကျောင်းက သင်တန်းသားများနဲ့ တူလိုက်တာလို့။

ဘယ်လို တူသလဲဆိုတော့ ပန်တျာကျောင်းမှာ အတီးအမှုတ်သင်ယူတဲ့သူက အတီးအမှုတ်ချည်း အမြဲ လေ့ကျင့်နေရတာပဲ၊ အဆိုသမားကလဲ အဆို ချည်း လေ့ကျင့်နေရတာပဲ။

အကသမားကလဲ အမြဲတမ်း လက်ချိုးကြည့်, ဆိုင်းချက်နဲ့ ညှိနေရတာပဲ, နောက်ဆုံး အိမ်သာတက် ပြီးလို့ ပြန်အဆင်း ခုန်ချရမှာတောင် "ပလို့-ဂျိ"လို့ ပါးစပ်က ဆိုရင်း ဆိုင်းချက်နဲ့ ညှိရတာ။

အဲဒီအတိုင်းပဲ ဆရာတော်ကလဲ နေရာတကာ သူ့မှာ "ဝိနည်း ဝိနည်း ဝိနည်း, သီလ သီလ သီလ" နဲ့ ဆိုတော့ အထုံတွေရပြီး "ပလို့-ဂျိ"သမားလိုကို ဖြစ်နေပြီ"လို့ ဤသို့ ဝေဖန်ချက်ပေး၍ လျှောက်ထား ဖူးသည်။

## တောထဲနေခြင်းဖြင့် ဘုရားကို ကျေနပ်မှုပေးနိုင်

### တောကျောင်းဘုန်းကြီးကလေး

"တစ်နေ့တုန်းက မြို့သာဘုန်းကြီးကလေး လာ တယ်၊ "ဣန္ဒာစရိယ"ပေါ့၊ ပျောက်နေတာ ကြာပြီ၊ အခု ဘယ်မှာ နေသလဲ, ဘာတွေ လုပ်နေသလဲလို့ မေးတော့"မြို့သာမှာ နေပါတယ်တဲ့၊ တောရကျောင်း မှာတဲ့၊ စိတ်အေး ကိုယ်အေးနဲ့ တရားကလေး ဘာ ကလေး ရှုမှတ်နေသတဲ့" ဘုန်းကြီးက သဘောကျ လိုက်တာလေ၊ လူတစ်ယောက်ကို အထင်မသေးကြ နဲ့၊ ငယ်ငယ်က ဘယ်လိုပဲ အခြေအနေ ရှိခဲ့ပေမယ့် ကြီးခါကျရင် တစ်မျိုးပြောင်းပြောင်းသွားတတ်ကြပါ တယ်၊ ဣန္ဒာစရိယဆိုရင် ငယ်ငယ်က လူပျော့ ကလေး, စိတ်သဘောထားလဲ ကောင်းရှာပါတယ်၊ အသားကလေးက ဖြူဖြူ, ရုပ်ကလေးက ဖြောင့် ဖြောင့်ဆိုတော့ ဟုတ်မှ ဟုတ်ပါ့မလား, သာသနာ့ ဘောင်မှာ မြဲမှ မြဲပါ့မလားလို့ ဟိုတုန်းက ထင်ခဲ့ တယ်၊ ဟော-အခု တောရကျောင်းဘုန်းကြီးကလေး ဖြစ်နေပြီတဲ့၊ ဘုန်းကြီးက ကျေနပ်တယ်၊ အင်မတန့် ကို ကျေနပ်တယ်၊ တောထဲမှာ နေတဲ့ "တောရ ကျောင်းဘုန်းကြီး"ဆိုတာ တောရိပ် တောတန်း ကလေးတွေကြည့်ပြီး ဝနသညာကိုယူလို့ တရားနှလုံး သွင်းလိုက်ရင် မရသေးတဲ့ သမာဓိ ရနိုင်တယ်၊ ရပြီးသား သမာဓိကိုလဲ စောင့်ရှောက်ထားနိုင်တယ်၊ ဘုရားကလဲ သဘောကျ။. . . .

**ပဝိဝိတ္တော အသံသဋ္ဌော,**
**ပန္တသေနာသနေ ရတော၊**
**အာရာဓယေန္တော နာထဿ,**
**ဝနဝါသေန မာနသံ။** . . . . တဲ့။

တိတ်ဆိတ်ပြီး လူသူမရောတဲ့ တောကျောင်းမှာ နေတဲ့ပုဂ္ဂိုလ်ဟာ တောမှာနေခြင်းဖြင့် အဘဘုရား ရှင်ရဲ့ အလိုတော်ကို ပြည့်စေနိုင်တယ်၊ ကျေနပ် စေနိုင်တယ်တဲ့။

---

**မှတ်ချက်။** ။ ဆရာတော့်အခေါ် "ဣန္ဒာစရိယ"ဟူသည် ဤမဟာဂန္ဓာရုံကျောင်းတိုက်ကြီးကို ဆရာတော် အရှင်ဇနကာဘိဝံသ တည်ထောင်စကပင် စတင် ရောက်လာခဲ့ကြသော တပည့်ကြီးများတွင် အပါအဝင်ဖြစ်၏၊ ဂန္ဓာရုံတိုက်တွင် ကြာမြင့်စွာနေထိုင်ခဲ့ပြီးနောက် ယခုအခါ မြို့သာမြို့ စမ်းချောင်းကလေးတောရမှာ စိတ်ချမ်းသာ ကိုယ်ချမ်းမြေ့စွာဖြင့် "တောရဘုန်းကြီးကလေးဘဝ"ကို ရယူကာ သမထ ဝိပဿနာဖြင့် ပျော်မွေ့နေသော ဆရာတော်ကလေး ဖြစ်ပါသည်။

## အနိစ္စသညာတွေ ပေါ်နိုင်လို့

"ဘာလို့လဲဆိုတော့, တောထဲမှာ ဆောင်း နွေ မိုး ၃ မျိုးလုံးစုံအောင် နေလိုက်ပြီဆိုရင်တဲ့, တော ရှုခင်း တောသဘာဝကလေးတို့ကို ပုံစံအမျိုးမျိုးနဲ့ မြင်ရပြီ၊ မိုးတွင်းအခါမှာဆိုရင် စိမ်းစို ရွှန်းဖပ်နေတဲ့ သစ်ပင်တွေ, လန်းဆန်းနေတဲ့ တောတောင်တွေ သစ်ရွက်တွေ မြင်ရ၊ တပေါင်းလဆန်းလောက်ကျ တော့ ရာသီဥတုက တရွေ့ရွေ့နဲ့ ပူပြင်းမှန်းမသိ ပူလာ, သစ်ရွက်ကလေးတွေလဲ တစ်စ တစ်စနဲ့ ဝါလာ, အညာမခိုင်သလို ဖြစ်လာကြကုန်ရော၊ တန်ခူးလလောက်ကျတော့ အကုန်လုံး ကြွေကျကုန် တာပဲ၊ တစ်တောလုံး ချောက်ချားဖွယ်. . . ။

အဲလိုနှင့် ကဆုန် နယုန်လမှာ တစ်ခါ တောမြိုင် တစ်ခုလုံး ပင်ကိုယ်လုံးတို့မှ ဖူးပရစ် အကိုက် အညှောက်နဲ့ ရွက်နုကလေးတွေ ပြန်ပေါက်လို့ စိုလို့ လန်းလို့ ဖြစ်လာကုန်ကြပြန်ရော... ။

အဲဒီလို ပြောင်းလွဲ ပြောင်းလွဲလာတာကလေး တွေကို မြင်ရဖန်များတော့ မြဲတယ်လို့ တစ်ချိန်က စွဲခဲ့တဲ့ နိစ္စသညာတွေ ပျောက်ပြီး မမြဲတဲ့ အနိစ္စ သညာဟာ အလိုလို ရောက်လာနိုင်တယ်တဲ့။

* **အဘိရတ္တာနိ နီလာနိ, ပဏ္ဍူနိ ပတိတာနိ စ၊ ပဿန္တော တရုပဏ္ဏာနိ, နိစ္စသညံ ပနူဒတိ။** တဲ့။

## သစ်ရွက်ဝါတို့က ဖြစ်ပျက်ပါလို့ပြော

အဘိရတ္တာနိ-တစ်ခေတ်ကူးလစ်, ဖူးပရစ်ဖြင့်, မြူးချစ်စဖွယ်, နုနယ်နီမြန်းခိုက်လည်း ဖြစ်ကုန်ထ သော၊ နီလာနိ စ-စိမ်းတစိုစို, ညိုတမှောင်မှောင်, ခိုရောင်မြသွေး, ကမ္ဘာ့ဆေးဖြင့်, အလှရေးသကဲ့သို့ လည်း ဖြစ်ကုန်ထသော၊

ပဏ္ဍူနိ စ-ပယင်းပမာ, အဆင်းဖြာလျက်, ဝင်းဝါ ဖျော့တော့ခိုက်လည်း ဖြစ်ကုန်ထသော၊ ပတိတာနိ စ-ရတုဂိမှာန်, နေရှိန်ဒဏ်ကြောင့်, ချိန်တန်စေ့ ရောက်, ရေငွေ့ပျောက်သဖြင့်, သွေ့ခြောက်ကြွေကျ ခိုက်လည်း ဖြစ်ကုန်ထသော၊

တရုပဏ္ဏာနိ-သူ့ခေတ်သူ့ခါ, ပေါ်လာဖြစ်ပျက်, သစ်ရွက်အပေါင်းတို့ကို၊ ပဿန္တော-ကမ္ဘဋ္ဌာန်းဂူ, စမ်း အငူမှ, မှန်းယူနေ့စဉ်, တွေ့မြင်ရသည်ရှိသော်၊ နိစ္စ သည်-မကွဲမလည်, အမြဲတည်ဟု, စွဲမှီထင်ကာ, စဉ်လာအမှား, သညာများကို၊ ပနူဒတိ-တောငွေ့ တောင်ငွေ့, ချောင်ဓလေ့ဖြင့်, ရှောင်ဖေ့ပယ်ရှားနိုင် တော့သတည်း...တဲ့။

အဲသလို တောထဲနေတာဟာ၊ တောရကျောင်း ဘုန်းကြီးဘဝ ဖြစ်ရတာဟာ လွယ်လွယ်နဲ့တရား သဘောပေါက်နိုင်တယ်တဲ့၊ ဘုရားကလဲ သဘော ကျတယ်၊ တောထဲနေဖို့ပဲ တိုက်တွန်းလေ့ရှိတော်မူ တာ...။

ယနေ့ နံနက်ခင်း ဩဝါဒကား တောသဘာဝ ဘက်ကို ဦးလှည့်နေ၏။ ဤသို့လျှင် ယခုအခါ ဆရာ တော်သည် အသက်အရွယ်နှင့်တကွ အတွင်းစိတ် ဓာတ်က လှုံ့ဆော်လာ၍လော မပြောတတ်၊ တော ရိပ် တောမြိုင်, ဂနိုင်စိမ့်စမ်း, တောစခန်းတို့ကို မမော တမ်းလို ပြောပြောနေတော့သည်။

## အားကိုးလို့ မေးတာကိုလည်း ကျေနပ်ဖို့ အဖြေပေးခဲ့

### အလုပ်တွေက ပုံပိနေတော့တာပဲ

"ဟဲ့-ဦးဣန္ဒောတို့...တစ်နေ့တုန်းက ဘယ်ကလဲ မေးတာ, သိမ်နဲ့ ပတ်သက်လို့ မေးတဲ့ မေးခွန်း, အဖြေရေးပြီးကြပလား၊ ပြီးရင် ဘုန်းကြီးဆီ လာပြ၊ စိစိစစ်စစ်လဲ ရေးကြနော်၊ ဘုန်းကြီးမှာက အရေးကြီး တဲ့ ကျမ်းစာကြီးတွေ မပြီးဘဲ နေမှာစိုးလို့ အချိန်လုပြီး ခပ်သုတ်သုတ် ရေးနေရတယ်။

ဒီတော့ ဟိုက သည်က ရောက်လာတဲ့ မေးခွန်း တွေကို ဘုန်းကြီးကိုယ်တိုင် ဖြေနေချိန် မရပါဘူး၊ စာချဘုန်းကြီးတွေကိုပဲ အဖြေခိုင်းနေရတယ်။

ဒါပေမယ့် အဲဒီအဖြေတွေ မှန်-မမှန် ဘုန်းကြီး စစ်ဆေးပါသေးတယ်၊ ပြင်သင့်ရာကို ပြင်ပြီးမှ စစ် ဆေးလို့ မှန်ပြီဆိုမှ ပြန်ကြားစေတာပါ။

---

* ဝိသုဒ္ဓိမဂ် ၊ ၁ – ၇၂။

မေးခွန်းတွေကလဲ သိမ်အကြောင်း, ကထိန်အကြောင်း, ရဟန်းခံအကြောင်း သောင်းပြောင်းထွေလာ စုံနေတာပဲ။

ကမ္ဘာကမ္ဘလို့ခေါ်တဲ့ ကံကြီး ကံငယ်ကိစ္စတွေ, ဘာသာရေးဆိုင်ရာတွေ, ဘုန်းကြီး တစ်ပါးတည်း အချိန် ဘယ်မှာ လောက်တော့မလဲ။

အလုပ်တွေက ပုံပိနေတော့တာပဲ၊ ပိပစေ၊ လူဆိုတာ အဲလို အလုပ်လုပ်မှ"။

## နိသီဒိုင် အတွင်းခံသင်္ကန်း

"ဟိုတစ်လောတုန်းကလဲ ဘာတဲ့, နိသီဒိုင်ကိစ္စ, ဦးပဏ္ဍိနဲ့ ဦးဇနပ္ပတိကို တာဝန်ပေးထားတယ်၊ အဖြေရေးလို့ ပြီးကြပလား။ ပြီးရင် ဘုန်းကြီးဆီ လာပြဦး။

နိသီဒိုင်ဆိုတာ စာထဲမှာသာ တက်ကြရလို့ နာမည် ကြား ကြားနေတာ၊ တကယ်လက်တွေ့မှာတော့ အသုံးအစွဲမရှိကြတော့ဘူး၊ ပျောက်ကုန်တယ်၊ ဒါ့ကြောင့်လဲ မေးတဲ့သူက မေးတာပဲ။

ဒါ့ကြောင့် လုပ်ပုံ လုပ်နည်း, ချုပ်ပုံချုပ်နည်းနှင့် တကွ ပုံစံပြပြီး အဖြေပေးလိုက်ကြပါလို့ ပြောထားရတယ်၊ အဲဒီကိစ္စ ပြီးကြပြီလား။

(နိသီဒန) နိသီဒိုင်ဆိုတာ ဝတ်ဖို့သာမက ထိုင်လို့လဲ ရတာပဲ၊ ဘုရားရှင်ရဲ့ အထွာနဲ့ အလျား ၂ ထွာ၊ အနံ တစ်ထွာခွဲ၊ အမြိတ်အဆာ ၁ ထွာ၊ အဲဒီပမာဏအတိုင်း ချုပ်ကြရတာ၊ အမြိတ်အဆာ ၃ ခုကို အလျားအနားထိပ်က တပ်ဆင်ကြရတယ်၊ သင်းပိုင်အတွင်းက ခံဝတ်ရတဲ့ အဝတ်တစ်မျိုးပါပဲ"။

## သုံးစွဲရပုံနှင့် အကြောင်းရင်း

"ဝတ်တဲ့အခါ အမြိတ်အဆာ ၃ ခုရှိတဲ့အနက် အလယ်က အမြိတ်အဆာအပိုင်းကို (ခါးတောင်းကျိုက်သလို) ရှေ့ကနေ နောက်သို့ ပို့ပြီး ကြိုးသေးသေးဖြင့် ချည်ထားရမယ်လို့ စာက ဆိုတယ်၊ တွယ်အပ်နဲ့လဲ တွယ်ကြသတဲ့၊ အခုခေတ်အရဆိုရင်... ကြယ်သီးတပ်ရင်လဲ သင့်မြတ်ဖို့ပါပဲ။

ဘေးတစ်ဖက်စီမှ အစနှစ်ခုကို ပေါင်ပေါ်က ပတ်သွားပြီး နောက်ကိုပို့, အခုနတုန်းကလို ကြိုးသေးသေးနဲ့, တွယ်အပ်နဲ့, ကြယ်သီးနဲ့ တပ်ဆင်ထားနိုင်တာပေါ့၊ ဆရာသမားများကတော့ တစ်မျိုးပြကြတယ်၊ အဲဒါရဲ့ ပြောင်းပြန်ပဲ၊ နောက်ကနေ ရှေ့ဘက်ပို့, ဆီးခုံပေါ်မှာ အမြိတ်အဆာတွေ လာစု, အခုနတုန်းကလို ကြိုးစတို့နှင့် တည်းထားရမယ်တဲ့၊ ဘယ်လိုပဲ ဖြစ်ဖြစ်, လုံခြုံဖို့ပါပဲ၊ သင်းပိုင်အတွင်းက ခံပြီး ဝတ်ရတဲ့ အဝတ်မျိုး, ဘောင်းဘီတိုသဘောမျိုးလို ဖြစ်သွားတာပေါ့၊ ဒါပေမယ့် ဘောင်းဘီတိုလိုတော့ မဝတ်ကြနဲ့၊ ခွင့်မပြုတာကိုတော့ မကဲကြနဲ့၊ ဒီနိသီဒိုင်အဝတ်ကို ခွင့်ပြု ပညတ်ရတာက ရဟန်းတွေတစ်စုထောပတ် ဆီဦးတို့လို အဆိမ့်အအိမ့် အမွန်အမြတ်အစားအသောက်တွေကို စားပြီး တရားနှလုံးမသွင်းဘဲ အိပ်ကြတယ်၊ သတိသမ္ပဇဉ်မထား တရားနှလုံးမသွင်းဘဲ အိပ်ကြတော့ မတော်မလျော် အိပ်မက်တွေ မက်ကုန်ကြရော၊ ဒါနဲ့ သင်္ကန်းတို့, အိပ်ရာနေရာတို့ ညစ်ပေကုန်ကြတဲ့အတွက် ဒါကို ကာကွယ်ဖို့ရာ ပညတ်ရတာ၊ ဒါ့ကြောင့် "သုက်နှီးသင်္ကန်း" လို့လဲ ခေါ်ကြတယ်"။

## ဝိတက်ဖောက်ပြား မပွားဘာဝနာ

"ဦးပဋ္ဌင်းတို့ ကိုရင်တို့...ရဟန်း သာမဏေဆိုတာ အရာရာမှာ သတိသမ္ပဇဉ် ရှိကြရတယ်၊ စိတ်လွတ်ကိုယ်လွတ်နေတာကို ဘုရားက ခွင့်မပြုဘူး၊ တိုင်းသား ပြည်သူက ကြည်ဖြူလို့ လှူတဲ့ ဆွမ်းကို ပရမ်းပတာ စား, ဝိတက်တွေ ဖောက်ပြား, မေတ္တာလဲ မပွားဘဲ, တရားလဲ နှလုံးမသွင်းဘူးဆိုရင်"အချည်းနှီး စားသုံးနေသူ"လို့ ဆိုရသတဲ့"။

ဟုတ်ပါသည်၊ ဆရာတော် သတိပေးသလိုပင် ရှေးဆရာ့ဆရာကြီးတို့ကလည်း ဤအဖြစ်ကို သတိမလစ်ဖို့ ဤသို့ ထောက်ပြထားကြပါသည်။

**"သောက်စားတုံလစ်, ဆွမ်းဆီယစ်၍, နွမ်းညစ်မျက်နှာ, ရှုရာဟောက်ဟက်, ခင်နီးထက်ဝယ်, မျှဉ်းစက်မွေ့လျော်, ပျော်တစင်းစင်း, နီးတုံလျှင်းလည်း, အပျင်းနိုရိ။**

ကိုယ်တလွန့်လွန့်, ဆန့်တငင်ငင်, ဘယ်တင် ညာပြောင်း, တောင်စောင်း မြောက်လူး, မှူးတူး ရမ်းတမ်း, သန်းတဝေဝေ။

မပြေ အိပ်မှုန်, အုန်တမိုန်းမှိန်း, ကိုယ်လက် ဖိန်းလျက်, ဝိတက်ဖောက်ပြား, ကြိုးတကြားမျှ, မပွားဘာဝနာ, ဆိတ်ညံရာရှင်၊ ပညာ သတိ, ရှိနိုင်လှစေ, စိတ်မသွေနှင့်...,။

(စနကမျိုးမှ)

# ရင့်၍ မြင့်လာသော နံနက်ခင်း ဩဝါဒ

## အမြဲတမ်း နှလုံးသွင်း စဉ်းစားဖို့

"ဒီဘုံလောကကြီးက မြင်မြင်သမျှ သင်္ခါရ, ဘာမျှ မြဲတာ မရှိဘူး၊ ခိုင်တာ မရှိဘူး၊ ဒီသဘောကို မေ့နေကြမှာ စိုးလို့၊ ဘုရားရှင်ကိုယ်တော်မြတ်က အဘိဏှ သုတ်ဆိုတာ အမြဲတမ်း နှလုံးသွင်း စဉ်းစားဖို့အရာ ၅ မျိုးကို ဟောထားတယ်၊ ဆိုကြစမ်း"

**သံဃာများ**။ ။ * "ပဉ္စိမာနိ ဘိက္ခဝေ ဌာနာနိ အဘိဏှံ ပစ္စဝေက္ခိတဗ္ဗာနိ က္ကတ္ထိယာ ဝါ ပုရိသေန ဝါ ဂဟဋ္ဌေန ဝါ ပဗ္ဗဇိတေန ဝါ၊ ကတမာနိ ပဉ္စ?။

(၁) "ဇရာဓမ္မောမှိ, ဇရံ အနတီတော"တိ၊

(၂) "ဗျာဓိဓမ္မောမှိ, ဗျာဒိံ အနတီတော"တိ၊

(၃) "မရဏဓမ္မောမှိ မရဏံ အနတီတော"တိ၊

(၄) "သဗ္ဗေဟိ မေ ပိယေဟိ မနာပေဟိ နာနာဘာဝေါ ဝိနာဘာဝေါ"တိ၊

(၅) "ကမ္မဿကောမှိ, ကမ္မဒါယာဒေါ ကမ္မယောနိ ကမ္မဗန္ဓု ကမ္မပဋိသရဏော၊ ယံ ကမ္မံ ကရိဿာမိ ကလျာဏံ ဝါ ပါပကံ ဝါ၊ တဿ ကမ္မဿ ဒါယာဒေါ ဘဝိဿာမီ"တိ။

**ဆရာတော်** ။ ။ အနက်ပါ ဆိုလိုက်ကြ။

**သံဃာများ** ။ ။ ဆရာတော် ချပေးထားသည့်အတိုင်း ဆိုကြသည်။

**ဆရာတော်** ။ ။ အမြဲတမ်း နှလုံးသွင်း စဉ်းစားနေဖို့ ၅ မျိုးတဲ့၊ ဒီ ၅ မျိုးကို မိန်းမ ယောကျ်ား လူဝတ်ကြောင်, ရဟန်းတို့ဟာ အမြဲတမ်း ဆင်ခြင်နေကြပါတဲ့။

## အစိပ္ပာယ်အကျယ်ရှင်းပြခြင်း

ပထမဦးဆုံးက ဘာလဲ "ငါသည် အိုခြင်းသဘော ရှိ၏၊ အိုခြင်းသဘောကို မလွန်ဆန်နိုင်ပါတကား" လို့ စဉ်းစားဆင်ခြင်နေရာမှာ။

ဒုတိယက "ငါသည် နာခြင်းသဘော ရှိ၏၊ နာခြင်းသဘောကို မလွန်ဆန်နိုင်ပါတကား"လို့။

တတိယက "ငါသည် သေခြင်းသဘော ရှိ၏၊ သေခြင်းသဘောကို မလွန်ဆန်နိုင်ပါတကား"လို့။

စတုတ္ထက "ငါသည် ချစ်မြတ်နိုးအပ်တဲ့ သက်ရှိသက်မဲ့ သတ္တါ သင်္ခါရတို့နှင့် သေကွဲရှင်ကွဲ (တစ်နေ့တွင်) ကွဲရမှာပါတကား"လို့။

ပဉ္စမက "ငါသည် ကံသာလျှင် ဥစ္စာရှိ၏၊ ကံသာလျှင် အမွေခံ, ကံသာလျှင် အကြောင်းရင်း, ကံသာလျှင် ဆွေမျိုး, ကံသာလျှင် မှီခိုရာ ရှိ၏၊ ကောင်းကံ မကောင်းကံ ပြုလုပ်လျှင် ထိုကံ၏ အမွေကိုသာ ခံယူရမှာပါတကား"လို့ စဉ်းစားနေရမှာ, မပြတ်ဆင်ခြင်နေရမှာတဲ့။

## အမြိုက်နိဗ္ဗာန်သို့ ဆိုက်နိုင်တယ်

ယခု ဤနောက်ပိုင်းတွင် ပေးသောဩဝါဒတို့မှာ ရှေးက ဩဝါဒတို့ထက် ပို၍ ရင့်သည်၊ ပို၍ မြင့်သည်၊ အနိစ္စ ဒုက္ခ အနတ္တသဘောတွေ မကြာမကြာ ပြောလာသည်၊ အရွယ်က စကားပြောလာသလို ဖြစ်တော့၏၊ ဆက်လက် မိန့်နေပြန်သည်။

"ဆိုခဲ့တဲ့ ၅ မျိုးထဲက အို နာ သေဆိုတဲ့ ၃ မျိုးဟာ လူတိုင်းတွေ့ကြရမှာ, မလွတ်တမ်း တွေ့ကြရမှာ၊ ဒီတော့ ခံနိုင်ရည်ရှိအောင်လို့ ဘုရားက မရဏာဿတိ သေခြင်းတရားကို သတိထားပါတဲ့၊ တစ်နေရာမှာဆိုရင် "မရဏဿတိ ဘိက္ခဝေ ဘာဝိတာ ဗဟုလီကတာ မဟပ္ဖလာ ဟောတိ မဟာနိသံသာ အမတောဂဓာ အမတပရိယောသာနာ"တဲ့၊ ဟောတော်မူထားတယ်။

ရဟန်းတို့...မရဏာဿတိဆိုတဲ့ သေခြင်းတရား၌

---

* အင်္ဂုတ္တရ ၊ ပါ ၊ ပဥ္စက – ၆၃။

သတိကပ်ထားရသော အလုပ်ကို ပွားများပါတဲ့၊ ကြိမ်ဖန်များစွာ အလေ့အလာပြု၍ ပွားများပေးပါလျှင် အကျိုးကြီးမားတယ်တဲ့၊ အမြိုက်နိဗ္ဗာန်သို့ သက်ဝင်နိုင်တယ်တဲ့၊ ဒါ့ကြောင့် "မရဏာနုဿတိ တရားကို ပွားများကြရဲ့လား"လို့ မေးတော်မူတော့ ရဟန်းတွေက "ပွားများကြပါတယ်ဘုရား"တဲ့၊ ဖြေကြတယ်၊ "အပူတပြင်း အရေးတကြီးသဘောထားပြီး ပွားများကြရဲ့လား"လို့ ထပ်ဆင့်မေးတော့ "ပွားပါတယ်"တဲ့၊ "ဘယ်လို ပွားတာလဲ"ဆိုတော့ ရဟန်း တစ်ပါးက လျှောက်တယ်။

## ရဟန်း ၈ ပါး လျှောက်ထားကြခြင်း

၁။ * "တပည့်တော်ဟာ တစ်နေ့နဲ့ တစ်ညလောက်တော့ အသက်ရှင်ပါရစေ, အဲဒီလောက်သာ အသက်ရှင်ရရင် ကျေနပ်ပါပြီ, ဒီအတွင်းမှာ တရားတွေ အားထုတ်ပစ်လိုက်မယ်, ဘုရားစကားကို တစ်သဝေမတိမ်း လိုက်နာပစ်လိုက်မယ်"လို့ သေလွယ်တတ်တဲ့ သဘောကို နှလုံးသွင်း ပွားများပါတယ်" တဲ့။

၂။ နောက်တစ်ပါးက လျှောက်ပြန်တယ် "တပည့်တော်ကတော့ (ညဥ့်မပါဘူးဘုရား), တစ်နေ့လောက်သာ အသက်ရှင်ရရင် ကျေနပ်ပါပြီ၊ ဒီအတွင်းမှာ တရားတွေ အများကြီး ကြိုးစားပစ်လိုက်မယ်"လို့ လျှောက်တယ်။

၃။ နောက်တစ်ပါးက လျှောက်ပြန်သေးတယ် ... "တပည့်တော်ကတော့(တစ်နေ့လုံးတောင်မဟုတ်ဘူး, နေထွက်ချိန်မှ နေ့ ၁၂ နာရီအထိ) နေ့တစ်ဝက်မျှသာ အသက်ရှင်ရရင် ကျေနပ်ပါပြီ"တဲ့။

၄။ နောက်တစ်ပါးက "ဆွမ်းထိုင်စားတဲ့ အချိန်တစ်ချိန်စာလောက် (တစ်နာရီခန့်လောက်) အသက်ရှင်ရရင် ကျေနပ်ပါပြီ"တဲ့။

၅။ နောက်တစ်ပါးက "အဲဒီအချိန်ရဲ့တစ်ဝက် (နာရီဝက်ခန့်)မျှလောက်သာ အသက်ရှင်ရရင် ကျေနပ်ပါပြီ"တဲ့။

၆။ နောက်တစ်ပါးက "ဆွမ်းလုတ် လေးငါးလုတ်လောက် ဝါးမြိုစားသောက်ချိန်လောက် အသက်ရှင်ရရင် ကျေနပ်ပါပြီ"တဲ့။

၇။ နောက်တစ်ပါးက "ဆွမ်းလုတ်တစ်လုတ် ဝါးမြိုစားသောက်ချိန်လောက် အသက်ရှင်ရရင် ကျေနပ်ပါပြီ"တဲ့။

၈။ နောက်တစ်ပါးကဆိုရင် "ဝင်သက် ထွက်သက် တစ်စုံ ရှူရှိုက်ချိန်လောက် အသက်ရှင်ရရင် ကျေနပ်ပါပြီ"တဲ့၊ "ဒီအတွင်းကလေးမှာ တရားတွေပွားများပစ်လိုက်မယ်"လို့ နှလုံးသွင်းပါသတဲ့။

## နောက်ဆုံး ၂ ပါးသာ အားရစရာ

ဒီတော့ မြတ်စွာဘုရားက မိန့်တယ်၊ "နောက်ဆုံး ၂ ပါးသာ ငါဘုရား အားရတော်မူတယ်, မမေ့မလျော့ ကျင့်သုံးဖော်ရကြပေတယ်"လို့ မိန့်တော်မူတယ်။

"ရှေ့ ၆ ပါးကဖြင့် အာသဝေါကုန်ခန်းဖို့အရေး နှေးနှေးစွာ ပေါ့ပေါ့လျော့လျော့ ကျင့်နေကြတာပဲ"လို့ အပြစ်တင်တော်မူတယ်၊ ဟုတ်ပါသည်၊ သေခြင်းသဘောတရားဟူသည်မှာ အချိန်မရွေး ဖြစ်နိုင်ပါ၏၊ ခမျှော်လင့်ဘဲ ပေါ်လာနိုင်ပါ၏၊ မျက်စိတစ်မှိတ် လျှပ်တစ်ပြက် အတွင်းမှာပင် တစ်မျိုးတစ်ဖုံ ပြောင်းလွှဲနိုင်ပါသည်၊ နက်ဖြန်ဆိုသည်ကမှ ဝေးသေး၏၊ နောက်ဘဝဆိုသည်ကား အနီးကလေး၊ ကွေးသောလက် မဆန့်မီ, ဆန့်သောလက် မကွေးမီ အချိန်အတွင်းမှာ တမလွန်ဘဝသို့ ရောက်သွားနိုင်သည်၊ ထို့ကြောင့် ရှင်တော်ဗုဒ္ဓက အရေးတကြီး အပူတပြင်း မရဏာနုဿတိတရား ပွားများသူကိုသာ (တရားကို အရယူသူကိုသာ) သဘောကျတော်မူသည်။

**"နက်ဖြန်"ဆိုတာ, တစ်နေ့တာသည်,**
**ဒီကာလနောက်, ညဥ့်မှောင်ရောက်၍,**
**နောက်နေ့နံနက်, အရုဏ်တက်မှ,**
**ဆက်ဆက်ရောက်လာ, ဧရီးကြာ၏၊**
**သို့ပါသော်လဲ, မသဲကွဲသည့်,**
**ရောက်မြဲဌာန, "နောက်ဘဝ"ကား,**
**ခဏခရီး, လျှပ်ပြက်စီးသို့,**
**ကွေးပြီးသောလက် မဆန့်မီ,**
**ဆန့်ပြီးသောလက် မကွေးမီ,**
**မဝေးလှပြီတကား...။**

---

* အင်္ဂုတ္တရ ၊ ပါ ၊ အဋ္ဌက – ၁၃၅။



ရွှေဟင်္သာဆရာတော်ဘုရားကြီး





### ဝိပဿနာပွားသူနှင့် စီးပွားရှာသူ

နီတိဆရာများကလည်း ဆိုကြပါ၏၊ "စီးပွားဥစ္စာရှာတဲ့သူသည် တစ်သက်လုံးမသေတော့မည့်သူကဲ့သို့ သဘောထား၍ ရှာရမည်"၊ "ဝိပဿနာပွား၍ တရားအားထုတ်သူကား ယခုပင် သေမင်းက ဆံပင်ကို လာ၍ အဆွဲခံနေရသကဲ့သို့ သဘောထားရမည်၊ အရေးတကြီး အပူတပြင်း ကြိုးစားရမည်"ဟု မိန့်ဆိုထားကြပါသည်၊ ရဟန်း ၈ ပါးတွင် နောက်ဖျားနှစ်ပါးကဲ့သို့ ဘုရား ချီးမွမ်းလောက်အောင် အချိန်ကို လု၍ ရသမျှ ကြိုးစားရမည်ဟု ဆိုလိုပါသည်။

[ဆောင်] **နေညဉ့်တစ်စုံ၊ တစ်နေ့ကုန်နှင့်၊ ဝက်တုံ့ခွဲပိုင်၊ တစ်ထိုင်ဆွမ်းစား၊ တစ်ဝက်အားဖြင့်၊ လေးငါးလုတ်တွင်း၊ တစ်လုတ်တွင်းပါ၊ ဝင်ခါထွက်သက်၊ အသက်ရှင်ရ၊ ကောင်းလေစွဟု၊ တောင့်တရှစ်ပါး၊ ထိုအများတွင်၊ နောက်ဖျားနှစ်ယောက်၊ ချီးမွမ်းလောက်၏၊ ခြောက်ယောက်ရှေ့မှာ၊ နှံ့နေးစွာဟု၊ မိန့်မှာစကား၊ ဟောမြွက်ကြားသည်၊... ဘုရား ရှိစဉ်တုန်းကတည်း။**

ဤသို့လျှင် ဆရာတော်က နံနက်ခင်းဩဝါဒတို့၌ ဤအပြောမျိုး ဤဩဝါမျိုးတွေ မိန့်မြွက် မိန့်မြွက် နေတော့၏။

## ဆရာတော်၏ဘဝ နေညို့လာချိန်များပေလော

### ချောက်ချားဖွယ် ကောလာဟလသတင်း

သင်္ဂိုးအဋ္ဌကထာတွေကို ချုပ်မှ ရေးသားဖွင့်ဆိုခဲ့ရာ အားလုံးပြီးစီးကုန်ပြီဖြစ်၍ "သုတ်ပါထေယျ" တစ်အုပ်သာလျှင် ကျန်တော့သည်၊ ယင်းကျမ်းစာလည်း တစ်နှစ်ခွဲ ၂ နှစ်အတွင်းမှာ ကောင်းစွာ ပြီးနိုင်၏၊ ထို့ကြောင့် "အသက် ၈၀ အတွင်းမှာ ကျမ်းစာတွေ အားလုံး ဖွင့်ဆိုပြီးရမယ်"ဟုပင် ဆရာတော်က ရဲရဲကြီး မိန့်မြွက်ခဲ့ဖူးသည်၊ အသက် ၈၀ နေနိုင်အောင်လည်း ကြိုးစားခဲ့၏၊ သို့သော်လည်း ကြိုးစားနေသည့် ကြားမှပင် ဆရာတော်မှာ "မျက်မွေးရောင်ရောဂါ"စွဲကပ်လာတော့သည်၊ ပထမဝါဆိုလ မကုန်မီကပင် စွဲကပ်နေခဲ့ရာ ယခု ဒုတိယဝါဆိုလ ဝါဆိုပြီးသည်အထိ မျက်လုံး အားနည်းနေ၏၊ သို့ဖြစ်၍ စာကြည့်မှုကို အနည်း ငယ် လျှော့ထားရ၏။

စာစောပိုင်းက ကျန်းမာရေးအတွက် အတွင်းပိုင်း ကလီစာတွေကို စစ်ဆေးသည့်အနေဖြင့် ဓာတ်မှန်ရိုက်ခဲ့ရခြင်း၊ ခလုတ်တိုက် လဲခဲ့ရခြင်း၊ မျက်မွေးရောင်ရောဂါ ဖြစ်မဲ့ရခြင်းတို့ဖြင့် (ရှေးကမဖြစ်ဖူးခဲ့သော) ရောဂါကလေးများ တစ်ခုပြီးတစ်ခု ဝင်ဝင်လာနေသည်၊ ထိုအထဲတွင် "မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသ ပျံလွန်တော်မူပြီ"ဟု ကောလာဟလ သတင်းများ ဖြစ်သွား၏။

ထို့ကြောင့် မန္တလေး စစ်ကိုင်းတို့မှ နီးစပ်ရာ ဒကာ ဒကာမများ၊ သီလရှင်များ ငိုငိုယိုယိုဖြင့် ကျောင်းတိုက်တွင်းသို့ ဝင်လာ ကြသည်။

၁၃၃၉ ခု ဒုတိယ ဝါဆိုလပြည့်ကျော် ၉ ရက်နေ့ နေ့လယ် ၁၂ နာရီအချိန်မှာကား စစ်ကိုင်းတောင်ရိုး ရွှေဟင်္သာချောင်မှ အဂ္ဂမဟာပဏ္ဍိတ ရွှေကျင် ဒုတိယသာသနာပိုင် ဆရာတော်ဘုရားကြီး (နောက်ပါ ရဟန်း ၃ ပါးနှင့်အတူ) ကြွလာတော်မူ၏၊ အားနာစရာပင် ကောင်းတော့သည်။

ထိုနေ့ နံနက် စစ်ကိုင်းမြို့ထဲမှ ဆွမ်းခံပြန်လာသော ဦးပဥ္စင်းတစ်ပါးက "အရှင်ဇနကာဘိဝံသ ပျံလွန်တော်မူပြီတဲ့ ဘုရား"၊ ဤသို့ သတင်းကြားခဲ့ကြောင်း လျှောက်ထားချက်အရ ကြွလာခြင်း ဖြစ်တော်မူသတတ်။

ကောလာဟလသတင်းများကား ချောက်ချားဖွယ်ရာသာတည်း၊ မည်သို့ ဖြစ်လာလေမည်နည်း၊ ရှေ့ပြေးနိမိတ်များပေလော၊ ဆရာတော်အတွက် အကောင်းဟု ဆိုရမည်လား၊ အဆိုးဟု ဆိုရမည်လား၊ ခွဲခြား၍ မရအောင် ဖြစ်နေရတော့သည်။

## ပြုံးပန်းနှစ်ပွင့် ဆုံကြခြင်း

ရွှေဟင်္သာဆရာတော်ဘုရားကြီး စီးလာသော ကားကလေးသည် ထိုနေ့က အမရပူရ မဟာဂန္ဓာရုံ ကျောင်းတိုက်အတွင်းသို့ စိတ်လှုပ်ရှားစွာဖြင့် တစ်ချိုးတည်း မောင်းဝင်လာသည်၊ ပြီးမှ မဟာဂန္ဓာရုံ ဆရာတော် သီတင်းသုံးနေကျ သစ်သားကျောင်း ကလေးအနီးသို့ အကဲခတ် အမူအရာဖြင့် ထိုးရပ်လိုက်၏။

ထိုအခိုက်တွင် "သုတ်မဟာဝါဘာသာဋီကာ" ချပ်ပို့ရန်အတွက် နေ့ ၁၂ နာရီ စာတက်တုံးကလေး ခေါက်ပြီးဖြစ်၍ ဆရာတော် အရှင်ဇနကာဘိဝံသ လည်း သူ့ကျောင်းကလေးပေါ်မှ ဆင်းအလာတွင် ဆရာတော်ကြီးနှစ်ပါး ဆုံမိကြတော့သည်၊ မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသကပင် စတင်၍ ပြုံးရွှင်စွာဖြင့် လက်အုပ်ကလေးချီကာ "ကြွတော်မူပါဘုရား"ဟု ခရီးဦးကြို ပြုတော်မူသည်။

ထိုအခါ ရွှေဟင်္သာဆရာတော်ဘုရားကြီး၏ မျက်နှာတော်မှာ အံ့အားသင့်ခြင်း၊ ဝမ်းသာခြင်း၊ ကျေနပ်ခြင်း၊ အံ့သြခြင်း၊ ပီတိဖြစ်ခြင်းလက္ခဏာများ ရောသော အမူအရာတို့ဖြင့် ပြွမ်းကာ ရွှန်းရွှန်းစို၍ အပြုံးခြင်း ဆိုင်တော်မူကြပါသည်။

ထို့နောက် မဟာဂန္ဓာရုံ ဆရာတော်ကပင် ဦးဆောင်၍ လက်အုပ်ကလေးချီကာ ရွှေဟင်္သာဆရာတော်ကြီးကို စာချသွားမည့်ကျောင်းသို့ ပင့်ဆောင်လာတော့သည်၊မနီးမဝေးရှိ စာချကျောင်းခန်းမတွင်ကား စာဆိုမည့် သံဃာများ၊ စာရေးမည့်သံဃာများ၊ စာလိုက်မည့် သံဃာများ အသင့် ရောက်နေကြပြီ ဖြစ်၏။

ဆရာတော်ကြီးနှစ်ပါး ဝင်လာ၍ နေရာတကျ ထိုင်မိကြသောအခါ မဟာဂန္ဓာရုံဆရာတော်က ရွှေဟင်္သာဆရာတော်ဘုရားကြီးအား..."ကျန်းမာတော်မူပါရဲ့လား ဘုရား၊ တခြား အကြောင်းကိစ္စကော ပါပါသေးသလားဘုရား"ဟု မေးလျှောက်သည်၊ ထိုအခါ ရွှေဟင်္သာဆရာတော်ဘုရားကြီးက မဖြေသေးဘဲ ပြုံးပြုံးကြီး လုပ်နေသည်၊ ပြီးမှ "အင်း... မဟာဂန္ဓာရုံဆရာတော် အတော် နေမကောင်းဘူး ကြားလို့ လာခဲ့ရတာပဲ"ဟု မိန့်တော်မူ၏။

ထိုအခါ "နေထိုင်မကောင်းဘူးတွင် ဘယ်ကမလဲ ဘုရား၊ တပည့်တော် ပျံလွန်တော်မူပြီ"လို့ အပြင်ဘက်မှာ သတင်းတွေ ဖြစ်နေသတဲ့ဘုရား၊ ဒါ့ကြောင့် မနက်ကတောင် နီးစပ်ရာ ဒါယကာ ဒါယိကာမတွေ၊ သီလရှင်တွေ ငိုငိုယိုယိုနဲ့ ရောက်လာကြသေးတယ် ဘုရား"ဟု မဟာဂန္ဓာရုံဆရာတော်က လျှောက်ထားသည်။

"ဒီကိစ္စဟာ ဆရာတော် ကျန်းမာဖို့အကြောင်း တစ်ရပ်ပေါ့ ဘုရား"ဟု ရွှေဟင်္သာဆရာတော်ဘုရားကြီးက အားပေးတော်မူရာ "မှန်ပါ့ဘုရား၊ အဲလိုဆိုရင်လည်း အကောင်းလို့ ပြောရမှာပေါ့ဘုရား"ဟု စကားကို အဆုံးသတ်ကာ "ကဲ- သံဃာများက ရွှေဟင်္သာဆရာတော်ဘုရားကြီးကို ကန်တော့ကြ"ဟု မဟာဂန္ဓာရုံဆရာတော်က သတိပေးတော်မူ၏။

## အနီးကပ်ကြည့်လေ ကြည်ညိုစရာဖြစ်လေ

စာချခန်းမအတွင်းက သံဃာများ အားလုံးက ရွှေဟင်္သာဆရာတော်ဘုရားကြီးအား လေးစား ပျပ်ဝပ်စွာ ဦးသုံးကြိမ်ချ၍ ကန်တော့လိုက်ကြသည်၊ ကန်တော့အပြီးတွင် မဟာဂန္ဓာရုံဆရာတော်က ရွှေဟင်္သာဆရာတော်ဘုရားကြီးအကြောင်းကို သံဃာတော်များအား အနည်းငယ် ပြောပြတော်မူ၏။

"ဒီ ရွှေဟင်္သာဆရာတော်ဘုရားကြီးဆိုတာ ညောင်တုန်းမြို့ ရွှေဟင်္သာတောရ ဆရာတော်ဘုရားကြီးနဲ့ ရန်ကုန်မြို့ ကျောင်းတော်ရာ ရွှေကျင်ဆရာတော်ကြီးများရဲ့ နည်းနာနိဿယအတိုင်း ကျင့်သုံးပြီး လာခဲ့တဲ့ ဆရာတော်ကြီးပါ။

ပရိယတ္တိဘက်မှာရော ပဋိပတ္တိဘက်မှာပါ အနီးကပ်ကြည့်လေ ကြည်ညိုစရာ ကောင်းလေဆိုတဲ့ ဆရာတော်များထဲ အပါအဝင်ပါပဲ"စသည်ဖြင့် သံဃာများအား ပြောပြရင်း ...

"ဆရာတော်ဘုရား...ယခုလို ကြုံကြိုက်တုန်းမှာ သံဃာများအား ဩဝါဒ ပေးတော်မူခဲ့ပါဦးဘုရား" ဟု တောင်းပန်သည်။

## ရွှေဟင်္သာဆရာတော်၏ ဩဝါဒ

ထိုအခါ ရွှေဟင်္သာဆရာတော်ကြီးက "အင်း- ဩဝါဒပေးပါဆိုလို့သာ ပေးရမှာပါ၊ တကယ်တော့ ဒီပရိသတ်ဟာ ဂန္ဓာရုံဆရာတော်ရဲ့ နေ့စဉ်ဩဝါဒ အတိုင်း လိုက်နာနေထိုင်ကြတဲ့ သံဃာပရိသတ်ပါပဲ၊ (ဗိုင်းကောင်း ကျောက်ဖိလို့) ပိပိရိရိ သေသေသပ် သပ် နေထိုင်တတ်ကြတဲ့ သံဃာပရိသတ်ပဲ၊ ဒီတော့ ဒီ အခြေအနေကို မယိုယွင်းစေဘဲ ဒီတိုက်တာ အတွင်းမှာသာမက အပြင်ရောက်တဲ့အခါမှာလဲ မူ မပျက်ပါစေနဲ့၊ တစ်သက်လုံး ဒီအတိုင်း ကျင့်သုံး သွားကြပါ"လို့ တိုက်တွန်းပါတယ်၊ ဒီလို ဆရာသမား မျိုးနဲ့က အင်မတန် တွေ့ရခဲ ကြုံရခဲပါတယ်၊ အခုလို တွေ့ခိုက် ကြုံခိုက် အခွင့်ရခိုက်မှာ ဆရာတော်ရဲ့ နည်းနာနိဿယတွေကို ရအောင်ယူကြပါ၊ ရအောင် ယူပြီးတော့ သာသနာ့ကျက်သရေဆောင် ပုဂ္ဂိုလ်များ ဖြစ်အောင် ကြိုးစား အားထုတ်နိုင်ကြပါစေကုန် သတည်း"ဟု ဩဝါဒကို အဆုံးသတ်လိုက်ရာ သံဃာ များက သာဓု ၃ ကြိမ် သံပြိုင်ညီညာ ခေါ်ကြသည်။

ထို့နောက် ရွှေဟင်္သာဆရာတော်ကြီးသည် မဟာ ဂန္ဓာရုံဆရာတော်နှင့် သံဃာများကို နှုတ်ဆက်၍ စစ်ကိုင်းဘက်သို့ ပြန်ကြွ သွားတော်မူသည်။

## သံဝေဂစိတ်တွေနဲ့ ငြီးငွေ့တဲ့ လက္ခဏာ

မဟာဂန္ဓာရုံဆရာတော်သည် သတိ သမာဓိ ကြီးမားတော်မူ၏၊ မေ့မေ့လျော့လျော့ နေတတ်သော ဆရာတော် မဟုတ်ပါ၊ သာသနာရေးကိစ္စတွေ အတွက် အသက် ၈၀ လောက်တော့ နေချင်သည်၊ နေရလိမ့်မည်ဟု မျှော်မှန်းထားခဲ့၏၊ သို့သော်လည်း ယခုနောက်ပိုင်းတွင် မမျှော်လင့်သောရောဂါကလေး များ ဝင်ဝင်လာသည်ကို သတိထားတော်မူဟန် ရှိသည်၊ ဆီးချိုရောဂါ အသည်းရောဂါ သွေးတိုး အဆုတ်တွင်း ရေဝင်, နှလုံးတစ်ဖက်ကြီးရောဂါများ ဖြစ်နေ၏၊ ဆရာဝန်များက အကုန်မပြော၊ ဆရာ တော်ကား သွေးတိုးနှင့် ဆီးချိုလောက်သာ သိသည်၊ သို့နှင့် "သေခြင်းတရားဟူသည် အချိန်မရွေး ဝင်လာ နိုင်၏"ဟု သဘောပေါက်တော်မူ၍ ယခုတလော ဩဝါဒပေးရာတွင် အိုခြင်း နာခြင်း သေခြင်းတရား တွေ ထပ်တလဲလဲ ပြောနေသည်။

တစ်ဖက်မှလည်း မပြီးတတ်သေးသော (ပဋ္ဌ ပကရိဏ်း ဘာသာဋီကာတွင် ပါဝင်သော) ပဋ္ဌာန်း အဋ္ဌကထာဘာသာဋီကာက ကုန်လုနီးနေပြီဖြစ်၍ ကျန်းမာရေးကောင်းချင်၏၊ သုတ်မဟာဝဂ္ဂလည်း တန်ဆောင်မုန်း နတ်တော်လောက် ဆိုလျှင် ပြီးနိုင် စရာ ရှိသည်။

ဤသို့ဖြင့် မှန်မှန်ပို့ချခဲ့ရာ ပဋ္ဌာန်းအဋ္ဌကထာ ဘာသာဋီကာမှာ ၁၃၃၉ ခုနှစ် ဝါခေါင်လဆန်း ၁၂ ရက်နေ့တွင် ပြီးစီး အောင်မြင်ခဲ့သည်၊ သုတ်မဟာ ဝဂ္ဂအဋ္ဌကထာကို ဆက်လက်ချပို့နေတော်မူသည်၊ ပဋ္ဌာန်းအဋ္ဌကထာနေရာတွင် ပါရာဇိကဏ်ပါဠိတော် ကို အစားထိုး၍ ချပို့ပေးတော်မူပြန်သည်။

ဤသို့ဖြင့် နေ့စဉ်မှန်မှန် အလုပ်လုပ်နေရင်းက သီတင်းကျွတ်လဆန်းလောက်ကစပြီး(သီတင်းကျွတ် လထဲတွင်) ဆရာတော်၏ စိတ်တို့မှာ သံဝေဂလို ဘာလိုလို ငြီးငွေ့လာသည်၊ အများနှင့် မဆက်ဆံ ချင်၊ ရှုပ်ရှုပ်ထွေးထွေး အာရုံတွေကို မကြည့်ချင်တဲ့ စိတ်တွေ သိသိသာသာကြီး ဖြစ်လာတယ်"ဟု အမိန့် ရှိ၏။

ထို့ပြင် "ထူးထူးခြားခြား ဝဲဘက် လက်ဖဝါးမှာ (အခြားလက္ခဏာတွေထက်) လက်ခလယ် တည့် တည့် တက်လာတဲ့ အရေးအကြောင်းကြီးကတော့ ရှေးရှေးတုန်းက မရှိဘဲ ယခုမှ ပေါ်လာတာ အမှန်ပဲ" ဟု အမိန့်ရှိကာ သူ့လက်ဖဝါးပြင်ကြီးကိုပင် ခဏ ခဏ ကြည့်နေတော်မူတတ်၏။

သွားရင်း လာရင်းပင် လက်ဖဝါးကြီးကို ထောင် ၍ ကြည့်သွားတတ်သည်၊ မန္တလေးက လက္ခဏာ ဆရာတစ်ဦးကလည်း "ဒီလက္ခဏာဟာ လောက ကြီးကို ငြီးငွေ့တဲ့ အထိမ်းအမှတ်ပဲ၊ စိတ်တွေဖြစ်တဲ့ အတိုင်း ပေါ်လာတာပဲဘုရား"ဟူ၍ လျှောက်ထား ပါသတတ်။

## တောထွက်လိုသော ဆရာတော်

ဆရာတော်ကား ယခုမှသာ ငြိုးငွေ့လာသည် မဟုတ်, အတော် စောစောကပင် ငြိုးငွေ့နေဟန် လက္ခဏာ ရှိသည်၊ မလွဲသာ မရှောင်သာ၍ ကျောင်းတိုက်ကြီးကို စောင့်ရှောက်နေရခြင်း, ရေးပြီးကျမ်းစာများကလည်း စာအုပ်မဖြစ်သေး၍ တဖြည်းဖြည်း စာအုပ်ဖြစ်အောင် ကြိုးစားနေရင်းနှင့် စာကိုလည်း တစ်နေ့ နှစ်ဝါ အနည်းဆုံး ချပို့ရေးသားပြီး ဩဝါဒကိုလည်း နေ့စဉ်မှန်မှန် နံနက်တိုင်း ပေးနေခြင်းတို့ဖြင့် အချိန်ကို ငံ့လင့်နေသည့်ဟန် ရှိပေသည်။

ရည်မှန်းချက်လုပ်ငန်းများ အားလုံးပြည့်စုံလျှင် "တောထွက်မည်"ဟု စိတ်ကို ပိုင်းဖြတ်ထားလေသလောမသိ၊ ၁၃၂၇ ခုနှစ် သီတင်းကျွတ်စ (ဆရာတော် သက်တော် ၆၆ နှစ်)ကပင် ပြင်ဆင်သောအားဖြင့် ပရိဝါသ် မာနတ်ကို အသင့် ဆောက်တည်ထားသည်။

ထိုနှစ် သီတင်းကျွတ်လပြည့်ကျော် ၁ ရက်နေ့ နံနက်က အမရပူရ မဟာဂန္ဓာရုံသို့ မြောင်းမြဆရာတော်ဘုရားကြီး ကြွလာသည်၊ ထိုနေ့ ညနေ ၅ နာရီခန့်၌ ဂန္ဓာရုံဆရာတော် ဝတ်ဆောက်တည်၏၊ အရှေ့သိမ်ပေါ်တွင် မြောင်းမြဆရာတော်ဘုရားကြီး အမှူးရှိသော သံဃာတော် ၁၀ ပါး၏အထံ၌ ပရိဝါသ် ၃ ရက်တွက် တောင်းခံဆောက်တည်သည်။

ထို့နောက် ပရိဝါသ်ကြားမှု ချမှုတို့ကိုကား သံဃာကုန်ဆုံသော အနောက်သိမ်ကြီးပေါ်၌ အသင့်စည်းဝေးထားနှင့်စေသော သံဃာကုန် (တိုက်တွင်းသံဃာများ)ထံသို့ ကြွ၍ ကြားသည်, ချသည်။

ညဥ့်အရုဏ်ယူမှုအတွက်ကား ယခု အမရပူရ ဆေးရုံတည်ရှိရာ မြေပေါ်၌ (ယခင်က တည်ရှိခဲ့ဖူးသော "ကုန္တာရာမကျောင်း"ကလေးသို့ နံနက်စောစောတိုင်း သွား၍) ညဥ့်အရုဏ် ခံယူ၏၊ ဤနည်းဖြင့် ပရိဝါသ်ရော မာနတ်ပါ ကျင့်သုံးပြီးလျှင် အဗ္ဘာန်သွင်း၍ ဝတ်ဆောက်တည်ခြင်းကိစ္စ ပြီးစီးစေထားသည်၊ "အခွင့်သင့်သောအခါ တောထွက်မည်"ဟု ရည်ရွယ်ထားဟန် လက္ခဏာ ရှိ၏။

**"အရှည်ကင်, တောသို့ ဝင်၍, ခုတင်ရအောင်, ရွာကိုရှောင်မှ, လေးတောင်ထွာဖြတ်, အစွန်းလွတ်သား, ကိုင်းညွတ်ကွေးကွေး, ကုပ်လုပ်လေးတာ, ပြန်ငါးရာဖြင့်, သချာမှန်လှ, တစ်ကောသဉ္စ, နေထကိန်းအောင်း, သစ်မိမ်းကျောင်းလည်း, ညောင်စောင်းဆုံ့ရုံ, တစ်စုံသက်န်း, ဖန်ရည်စွန်းသား, ခါးပန်း သင်းပိုင်, ဓမ္မကရိဏ်၊ ပဲခွပ်, သပိတ် အပ်နှင့်, ကိုယ်ဝတ်ဒုကုဋ်, လက်ဆုပ်ကိုင်သွား, ကရား သားရေနယ်, ပခုံးလွယ်၍, လေးဆယ်ကမ္မဋ္ဌာန်း, စီးဖြန်းတစ်တစ်, မချစ်ဖော်ရွေ, ကိုယ်တည်းနေမှ, ကေစာရ, မာန်စောင်ချလျက်, လောဘမစော, လူမနှောသည့်, တစ်တောထွက်လျှင်, တစ်တောဝင်၍, တစ်ပင်ထွက်သွား, တစ်ပင်နားလျက်, ခေါင်းပါးအစာ, မျှရုံသာလျှင်, ပမာနိုင်းတု, ကြက်ဥထက်မြောက်, ခေါင်းဥလောက်ဖြင့်, ဖျောက်ဖျောက်မများ, လုတ်ရေစားမှ, လေးငါးလုတ်လျှော့, ဖျော့တော့ကိုယ်လက်, ပစ္စဝေက်လည်း, နေ့ရက်အမြဲ, သုံးစွဲတိုင်းပင်, ရွတ်ဆင်ခြင်မှ, သုတ်သင်အာပတ်, ပရိဝါသ်နှင့်, မာနတ်ဗ္ဘာန်သွင်း, မကင်းစောင့်စည်း, သီလဆည်းး၍, ပုလလည်းဆင်, ကျင့်သောသွင်သို့, အောင်မြင်တံခွန်, သာမျိုးလွန်သည့်, နိဗ္ဗာန်ရွှေမြို့, ရောက်ရန်သော်။**

(ရှင်မဟာသီလဝံသ)

## ချမ်းမြေ့ဖွယ်ကောင်း တောရကျောင်းကလေး

ရှင်မဟာသီလဝံသ၏ တောရကျောင်းနေ ရဟန်းအသွင်ကား ပီပြင်လှပါဘိ၊ ကျောင်းကလေးက ခုတင်တစ်လုံးဆံ့ရုံ သစ်ရွက်မိုးကျောင်းကလေး, သစ်ခေါက် ဖန်ရည်ဆိုး သင်္ကန်းက တစ်စုံ, သပိတ်တစ်လုံးနှင့် ဓမ္မကရိုဏ်, ပဲခွပ်, အပ်၊ ပစ္စည်းကလည်း မများလှပါ၊ သားရေနယ်အခင်းကလေး တစ်ခု။

ခန္ဓာကိုယ် အသားအရေက ပိန်ခြောက်ခြောက်, အသွေးအရောင်က ဝါဖျော့ဖျော့ (လူမမာအသွင်), သစ်တစ်ပင်မှ တစ်ပင်, တောတစ်ခုမှ တစ်ခုသို့ ဖြတ်သန်း ကူးသွားနေသော ရဟန်းတစ်ပါးကို မြင်နေရ၏၊ စိတ်နေ ကျဉ်းကြပ်လှပါဘိခြင်း။

ဆရာတော် အရှင်ဇနကာဘိဝံသကား...ထိုသို့

မဟုတ်ချေ၊ စိတ်ချမ်းမြေ့ဖွယ်ကောင်းသော "တောရကျောင်းကလေး"ကို စိတ်ကူးကြည့်ထားသည်။

"ငွေသောင်ကမ်းခြေနှင့် အပန်းဖြေဖို့ စမ်းရေအလျဉ် တသွင်သွင် စီးဆင်းနေသော အရပ်လည်း ဖြစ်ရမည်၊ မြို့ရွာအူသံ မဆူညံဘဲ လူသံလည်း တိတ်၍ ဆိတ်ငြိမ်သော အရပ်လည်း ဖြစ်ရမည်။

ရာသီအလိုက် သီးပွင့်ငုံကင်း၍ ရဂုံတွင်ဂနိုင်မှာ ထုံသင်းကြိုင်လျက် တလှိုင်လှိုင် ရန့်သင်းသောအရပ်လည်း ဖြစ်ရမည်၊ စိမ်းစိုညိုမှောင် ခိုရောင်မြသွေး အလှရေးသည့်အသွင် သစ်ပင်ပိတ်ပေါင်းတို့ဖြင့် အရိပ်လည်း ကောင်းရမည်" စသည်ဖြင့် ပုံဖော်ထား၏။

ဤကဲ့သို့သော "တောရကျောင်းကလေး"မျိုးကို ရှာ၍ ဆရာတော်က စိတ်ချမ်းသာ ကိုယ်ချမ်းမြေ့ အပူအပင်ကင်းမဲ့စွာဖြင့်...

**"မာတင်္ဂကြီး, တောနိမိုးသို့, ကိုယ်တည်းအောင်းနို့, ဗြဟ္မစိုရ်ဖြင့်, အလိုတော်ရှိ ပြည့်အောင်ဖြည့်ပိမ့်, ငါ၏နောက်တော်, တစ်ယောက်သော်မျှ, မခေါ်အပို, ဖော်မလိုသည်, ရွှေကိုယ်သက်သက် ရှင်းရှင်းတည်း"**

ဟူသကဲ့သို့ တစ်ပါးတည်း တောထွက်လိုဟန် ရှိနေခဲ့ပေသည်၊ ထို့ကြောင့်ပင် တစ်ချိန်တုန်းက ပဲခူးမြို့ ရွှေခြံ ဦးသူတော်နှင့် စစ်ကိုင်း ကောင်းမှုတော်ကြီး၌ သိတင်းသုံးနေထိုင်ရန် တိုင်ပင်ဖူးကြောင်း နောက်မှ သိရသည်။

တစ်ဖန် ပြင်ဦးလွင် ဂန္ဓာရုံတိုက်ခွဲသို့ သွားပြီး တိတ်တိတ်ဆိတ်ဆိတ် နေဖို့လည်း စိတ်ကူးသေး၏၊ ထို့နောက် တောင်သမန်ဘက်က နွားနို့တော်စုရွာနှင့် ခပ်လှမ်းလှမ်းတွင် တောရကျောင်းတစ်ကျောင်း ကောင်းကောင်းရှိသည်ဟုကြား၍ စုံစမ်းခိုင်းဖူးသည်။

နောက်ဆုံးတွင်ကား တောင်သမန် ကျောက်တော်ကြီးဘုရားဝင်းကြီးသည် ကျယ်လည်း ကျယ်, သစ်ပင်ကြီး သစ်ပင်ငယ်တို့ဖြင့် အုပ်ဆိုင်းနေ၍ တောကြီးသဖွယ်လည်း ဖြစ်၏၊ တိတ်ဆိတ်၏၊ လူသူလည်း ကင်း၏၊ ချမ်းမြေ့ဖွယ် ကောင်းလှသည်၊ ယင်းနေရာကို စဉ်းစား မျှော်မှန်းထားဟန် ရှိ၏ဟု သိရသည်။

## ယောဂီဘဝဖြင့် တောဆီကြွချင်ပြီ

ဤတောထွက်ခြင်းကိစ္စနှင့်စပ်ပြီး ဆရာတော် သက်တော် ၅၀ ကျော်လောက်တုန်းက အမိန့်ရှိဖူးသည်၊ ဇာတ်အဋ္ဌကထာများကို ချပို့ပေးသောအခါ ဇာတ်လမ်းတစ်ခု ဆုံးခါနီးတိုင်း ရှေးသူတော်ကောင်းတို့သည် တော ထွက် ထွက် ကုန်ကြသည်ကို တွေ့ရ၏၊ တောထဲမှာ သစ်သီးစား၍ တရားကျင့်ကြသည်၊ ဥပုသ်သီလ စောင့်ထိန်းကြ၍ သုဂတိဘဝကို ယူကြ၏၊ ဤသို့ တွေ့ဖန်များသောအခါ ဆရာတော်က ခပ်ရွှန်းရွှန်း အမိန့်ရှိတော်မူသည်။

"ဘုန်းကြီးလဲ အသက်ကြီးလာရင် တောထွက်မယ်လို့ စိတ်ကူးထားတယ်၊ ဒါပေမယ့် သူများလို တစ်ပါးတည်းတော့ မဟုတ်ဘူး၊ အဖော်နဲ့မှ။

ဘာလို့လဲဆိုတော့ ဘုန်းကြီးက သရဲကြောက်တတ်တယ်၊ ဒါ့ကြောင့် ကပ္ပိယကြီးတစ်ယောက် ပါရမယ်၊ ပြီးတော့ နွားမကြီးတစ်ကောင်လည်း ပါရမယ်" ဟု အမိန့်ရှိဖူးသည်၊ "ကပ္ပိယကြီးက ဘာလုပ်ဖို့လဲ"လို့ မင်းတို့က မေး ကြမယ်၊ ကပ္ပိယကြီးက အဖော်လဲ ဖြစ်, တောထဲမှာ ဆွမ်းချက်ကပ်ဖယ့်သူလဲ ဖြစ်တာပေါ့၊ "နွားမကြီးက ဘာလုပ်ဖို့လဲ"လို့ မေးချင်ကြဦးမယ်၊ "အေး-အဲဒါကလဲ နေ့စဉ်နေ့တိုင်း နွားနို့ သောက်ရအောင်လို့ပေါ့"ဟူ၍ ရယ်မောရင်း အမိန့်ရှိဖူးသည်။

ဆရာတော်က ကျန်းမာရေးအတွက် နေ့စဉ် မှန်မှန် နွားနို့တစ်ခွက် သောက်နေရင်းက စိတ်ကူး ပေါ်လာ၍ ထည့်သွင်းပြောခြင်းဖြစ်ဟန် တူသည်။

ဤသို့ပင် စာချပြီဆိုလျှင် ဆရာတော်က ခပ်ရွှင်ရွှင် ပြောမြဲ ဖြစ်သည်၊ တပည့်တို့ကိုလည်း စာတက် စာချချိန်၌မူ ပျော်ပျော်ရွှင်ရွှင် နေသည်ကို ခွင့်ပြုတော်မူလေ့ရှိ၏၊ ရယ်စရာ မောစရာတို့ကိုလည်း စပ်ရာစပ်ရာ ထည့်သွင်း ပြောတတ်၏၊ သူရယ်စရာပြောလျှင်လည်း တပည့်တို့က ရယ်မှ ကြိုက်သည်၊ ထို့ကြောင့် တပည့်တို့မှာ ဆရာတော့်စာဝါဆိုလျှင် ဘယ်စာဝါပဲဖြစ်ဖြစ် ရွှင်နေတတ်ကြသည်၊ မြူးနေတတ်ကြသည်၊ ထိုအချိန်တုန်းက တောထွက်ခြင်းကိစ္စ၌ ရယ်စရာမောစရာအဖြစ် ပြောခဲ့သော်လည်း ယခုအချိန်တွင်ကား အမှန်စင်စစ် သံဝေဂစိတ်ဖြင့် တောထွက် တရားကျင့်လိုဟန် တူပေသည်၊ အရွယ်က စကားပြောလာပြီ မဟုတ်ပါလော။

# ငါမရှိလျှင် ဝိုင်းပြီး စောင့်ရှောက်ရစ်ကြ

## သံဃာအများပိုင် သံဃိကစနစ်ကျင့်သုံး

အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်၌ ကျင့်သုံးသော စနစ်မှာ ကျောင်းကန် အာရာမ်မြေ, ကျောင်းအဆောက်အအုံများ, ရေတွင်း ရေကန် ဇရပ် တန်ဆောင်းများ, ကုဋီများ, စားပွဲ, ဗီရို, ကုလားထိုင်, ခုတင်, ထိုင်ခုံ စသည်များ ကြီးကြီးမားမား ခိုင်ခိုင်မာမာဟူသမျှ (အာရာမ, အာရာမဝတ္ထု၊ ဝိဟာရ ဝိဟာရဝတ္ထုဟူသမျှ)နှင့် ဆန် ဆီ ဆား စားဖွယ်သောက်ဖွယ်ဟူသမျှ အများစုမှာ သံဃိက (သံဃာပိုင်) ပြုလုပ်သုံးစွဲသော စနစ် ဖြစ်၏။

သံဃိကပစ္စည်းဖြစ်၍ လေးလေးစားစား ရိုရိုသေသေ သုံးစွဲကြရသည်၊ မိမိပိုင်ပစ္စည်းအဖြစ် မိမိသုံးစွဲနေကျ သပိတ် သင်္ကန်း နေကထိုင် မျက်နှာသုတ်ပဝါ ပရိက္ခရာ အနည်းငယ်မျှသာ ပုဂ္ဂလိကအဖြစ် ထားခွင့် ရှိ၏၊ ဤသို့ ပြုလုပ်လိုက်သဖြင့် လက်ငင်းအကျိုးရမှုမှာ စွဲလမ်းစရာအာရုံ နည်းပါးသွားတော့ခြင်း ဖြစ်သည်၊ ကြီးကဲသော ပုဂ္ဂိုလ်တို့မှာ တာဝန်ဝတ္တရားအရ သံဃာများ နေဖို့ ထိုင်ဖို့ သုံးစွဲဖို့ ဆောင်ရွက်လုံးပမ်းရသော်လည်း ကိုယ်ပိုင်မဟုတ်သဖြင့် စွဲလမ်းမှု တွယ်တာမှု နည်းပါးရတော့၏၊ ဘုရားချမှတ်ခဲ့သော မူစနစ်ပင် ဖြစ်ပေသည်။

သံဃာအများပိုင်ဖြစ်၍ ရောက်လာ ရောက်လာသော သံဃာများ လေးစားရိုသေစွာ သုံးစွဲနိုင်ခွင့်ရှိ၏၊ ကြီးကဲသော ပုဂ္ဂိုလ်များကမူ မပျက်စီး မယိုယွင်းရအောင် ထိန်းသိမ်းကွပ်ကဲရသော ဝတ္တရားရှိသည်၊ ထို့ကြောင့်ပင် ဘုရားလက်ထက်တော်တုန်းက ကျောင်းတိုက်ကြီးများဆိုလျှင် မိမိတို့ ရောက်လာခိုက်မှာ ဝင်ရောက် နေထိုင်နိုင်၏၊ သို့သော် နေထိုင်ခိုက်မှာ သန့်ရှင်း ရိုသေစွာ သုံးစွဲကြရသည်၊ ဒေသစာရီ ဆက်လက်ကြွချီလို၍ ထိုကျောင်းတိုက်မှ ထွက်ခွာတော့မည် ပြုသောအခါ အသုံးအဆောင်ဟူသမျှ လေးစားစွာ သိမ်းဆည်းခဲ့ရ၏၊ နောက်တစ်သုတ် ရောက်လာ၍ နေထိုင်သောအခါ ရှေးနည်းအတူပင် သန့်သန့်ရှင်းရှင်း သုံးစွဲနိုင်ခွင့် ရှိသည်၊ ဤသို့လျှင် တစ်သုတ်ပြီး တစ်သုတ် ဝင်ထွက် သွားလာ နေထိုင်ခွင့် ရှိကြတော့၏၊ ဤသို့ အခွင့်ရှိနိုင်အောင်ပင် ဝေဠုဝန်ကျောင်းတိုက်ကြီးကို လှူဒါန်းစဉ်ကလည်းကောင်း, ဇေတဝန်ကျောင်းတိုက်ကြီး ပုဗ္ဗာရုံကျောင်းတိုက်ကြီးစသည်ကို လှူဒါန်းစဉ်ကလည်းကောင်း မြတ်စွာဘုရားက သံဃိကအဖြစ် အလှူခံတော်မူခဲ့ခြင်း ဖြစ်ပေသည်။

## ဆက်လက်ကွပ်ကဲ ထိန်းသိမ်းရမှာပဲ

ဤသို့ အများဆိုင် အများပိုင် သံဃိကကျောင်းတိုက်ကြီးများ, သံဃိကအဆောက်အအုံကြီးများ ဖြစ်၍ပင် ပုဂ္ဂလိကအဖြစ် မည်သူ့အားမျှ ပေး၍ မရ, မည်သူ့အားမျှ ပြောင်းလွှဲ၍ မရ၊ ထို့ကြောင့်လည်း ရှင်တော်ဗုဒ္ဓက ပရိနိဗ္ဗာန် ပြုတော်မူခါနီးတွင် ဇေတဝန်ကျောင်းတိုက်ကြီးကို မည်သည့် သာဝကကြီးအား အပိုင် လွှဲခဲ့သည်ဟူ၍လည်းကောင်း, ဝေဠုဝန်, ပုဗ္ဗာရုံ စသည်တို့ကိုလည်း လွှဲအပ်ခဲ့သည်ဟူ၍လည်းကောင်း အဆိုအမိန့်မှတ်တမ်း မကျန်ရစ်ခဲ့ခြင်း ဖြစ်ပေသည်၊ ဆရာတော် အရှင်ဇနကာဘိဝံသကလည်း ဤမူစနစ်အတိုင်း ကျင့်သုံးတော်မူနေခြင်းဖြစ်၏၊ အချို့က စိုးရိမ်ကြ၍ လျှောက်ထားကြသည်၊ "ဆရာတော်.မရှိလျှင် ဒီကျောင်းတိုက်ကြီးကို ဘယ်လို လုပ်မလဲ"စသည်ဖြင့် မသိ၍ မေးတတ်ကြ၏၊ ဆရာတော်၏ အဖြေမှာ ရှင်းနေပါသည်၊

"သံဃိကစနစ်အတိုင်း ကျင့်သုံးကြ"ဟူ၍ ဖြစ်ပါသည်၊ တစ်ခါတုန်းက မဟာဂန္ဓာရုံကျောင်းတိုက်နှင့် ရင်းနှီးသော မြင်းခြံမှ ဒကာကြီး အချို့က တပည့်ကြီးတစ်ပါးဖြစ်သော ဦးမဟိန္ဒအား မေးလျှောက်ဖူးသည်၊ "အရှင်ဘုရား-ဆရာတော် ပျံလွန်တော်မူလျှင် ကျောင်းတိုက်ကြီးကို ဘယ်လို လုပ်ကြမလဲ"ဟု လျှောက်ထားရာ "ယခု ရှိနေတဲ့ တပည့်ကြီးတွေကပဲ ကွပ်ကဲအုပ်ချုပ်ပြီး မပျက်စီးအောင် ထိန်သိမ်းသွားရမှာပဲ"ဟု ဖြေခဲ့သည်၊ ထိုအဖြေကို ကျောင်းတိုက်သို့ ပြန်ရောက်သောအခါ ဦးမဟိန္ဒက ဆရာတော်အား လျှောက်ထားကြည့်သည်၊ ထိုအခါ ဆရာတော်က "ဟုတ်တာပေါ့၊ ကျန်ရစ်တဲ့ လက်ရှိတပည့်ကြီးတွေကပဲ ကွပ်ကဲအုပ်ချုပ်ပြီး ညှိနှိုင်းတိုင်ပင်၍ ညီညီညွတ်ညွတ်နဲ့ ထိန်းသိမ်းသွားရမှာပဲ"ဟူ၍ မိန့်ကာ အသိအမှတ် ပြုတော်မူသည်။

## လာဘသက္ကာရဟာ အဆိုးဆုံး

ရှင်တော်ဗုဒ္ဓသည် သဗ္ဗညုတဉာဏ်တော်ဖြင့် မြင်တော်မူပြီးမှ ချမှတ်ခဲ့သော သံဃိကစနစ်ဖြစ်၍၊ ထို့ကြောင့် သံဃိကကျောင်းတိုက်ကြီးများ၌ သံဃိကစနစ်အရ ကျင့်သုံးနေသမျှ ပြဿနာ ဘာမျှ မရှိနိုင်၊ ဤအချက်ကို ဆရာတော်က ယုံကြည်တော်မူ၍ပင် သံဃိကစနစ် ကျင့်သုံးထားတော်မူ၏၊ ယခုအခါ မဟာဂန္ဓာရုံတိုက်၌ အတူနေ, အတူစား, အများပိုင် စုပေါင်း အလုပ်လုပ်, စုပေါင်းအတွက် အကျိုးရ အနေမျိုးဖြင့် ထိုက်သလောက် အောင်မြင်နေသည်။

ထို့ကြောင့် တစ်ခါတုန်းက အစိုးရပိုင်းမှ အရာရှိတချို့က လျှောက်သည်၊ "ဆရာတော်က ဆိုရှယ်လစ် စနစ် အစောကြီး အောင်မြင်နေတာပဲ"တဲ့၊ ထိုစကားကို ဆရာတော်က "ဆိုရှယ်လစ်တွေ ဘာတွေ ဘုန်းကြီးနားမလည်ပါဘူး, ယခု ဘုန်းကြီးလုပ်နေတာက ဘုရားစနစ်ပါ"ဟု ပြန်လည် ဖြေကြားတော်မူဖူး၏၊ ဤစနစ် ပျက်ယွင်းမသွားစေလို၍ ဆရာတော်က သြဝါဒတွင် ထည့်သွင်း မိန့်ကြားသည်။

"ဒီကျောင်းတိုက်ကြီးကို ဘုန်းကြီးမရှိဘူးဆိုရင် ဝိုင်းပြီးစောင့်ရှောက်ကြ, အဲဒီလို စောင့်ရှောက်နိုင်အောင်လဲ ယခုနှယ်က ကျန်းမာရေး ပညာရေးတွေ ပြည့်စုံအောင် လုပ်ထားကြ၊ ညီညွတ်ရေးအတွက် မေတ္တာဘာဝနာနဲ့ စိတ်ထား ကြီးကြီးမားမား ထားနိုင်ရေး, တစ်ပါးနဲ့တစ်ပါး သည်းခံနိုင်ရေးအတွက် ဗုဒ္ဓါနုဿတိဘာဝနာကို ပွားထားကြ၊ အထူးအားဖြင့် လာဘသက္ကာရဟာ စိတ်ဝမ်းကွဲစေတတ်တာပဲ၊ အလုပ်လုပ်နိုင်ရုံ, မျှတရုံ စားဝတ်နေရေးရှိလျှင် တော်ရောပေါ့လို့ သဘောထားနိုင်ဖို့ လိုတယ်၊ အပိုတော့ လက်မခံကြနဲ့၊ မိမိကို အထူးသီးခြား ပင့်တာလောက်ပဲ ပုဂ္ဂလိက လုပ်ကြပေါ့၊ အများအားဖြင့်တော့ ရသမျှ သံဃိကလုပ်, အဲဒါ အကောင်းဆုံးပဲ၊ ပြီးတော့ ကျောင်းဒကာတွေ ကျောင်းအမတွေကလဲ ကိုယ့်ကျောင်းဆိုင်ရာကလေးလောက် ကွက်ကွက်ပြီး လှူလား တန်းလား ဆွမ်းပင့်ကျွေးလားဆိုတာတွေ မရှိကြစေနဲ့၊ လက်မခံကြနဲ့၊ အဲဒါဟာ စိတ်ဝမ်း အကွဲ တတ်ဆုံးပဲ၊ သူ့ကျောင်းမှာ လိုအပ်နေတဲ့ စားပွဲ, ကုလားထိုင်,ခုတင်စသည်(ကျောင်းသုံးသံဃိကအနေနဲ့) ဖြည့်သွင်းတာ လှူတာကိုတော့ လုပ်ပစေပေါ့၊ ဒီထက်တော့ပိုပြီး သီးခြားသီးခြား မလုပ်ကြစေနဲ့။

(၁၃၃၂ ခု တပေါင်းလဆန်း ၉ ရက်နေ့ သြဝါဒ)

# ဥဘော အညောညနိဿိတာ

## ရှင် လူ ရဟန်း အကုန်လုံးပဲ

သာသနာပြုတဲ့နေရာမှာ ဆရာ ဒကာ နှစ်ဖြာလုံး ညီညွတ်နေကြမှ အောင်မြင်မယ်၊ "သာဂါရာ-အိမ်ရာတည်ထောင်, လူတို့ဘောင်၌, ခေါင်းဆောင်ရှေ့သွား, ဒါယကာ ဒါယိကာမအများတို့သည်လည်း ကောင်း၊ အနာဂါရာ စ-အိမ်ရာမထောင်, သာသနာ့ဘောင်၌, ခေါင်းဆောင်ရှေ့သွား, ဆရာတော်ဘုရားတို့သည်လည်းကောင်း၊ ဥဘော-ဆရာဒကာ, နှစ်ဖြာနှစ်ဦးတို့သည်၊ အညောညနိဿိတာ-ကျွန်းကိုကိုင်းမှီ, ကိုင်းကျွန်းမှီသို့, ပမည်မယွင်း, အချင်းချင်း အားထားကြကုန်လျက်။

အခု ဘုန်းကြီးက မှာနေတယ်...

"ဘုန်းကြီးမရှိရင် ဒီကျောင်းတိုက်ကြီးကို ဝိုင်းပြီး စောင့်ရှောက်ကြ, ဘုန်းကြီးရဲ့ သာသနာပြုလုပ်ငန်း လက်ငုတ်တွေကို ဆက်လက်ပြီး အလုပ်လုပ်ကြ, ဆောင်ရွက်ကြဆိုတာ ဘုန်းကြီးတွေချည်းပဲ ဆိုလိုတာ မဟုတ်ဘူး၊ ဒကာတွေရော, နီးစပ်ရာ ဒကာ ဒကာမတွေရော, ကျောင်း ဒကာ ကျောင်းအမတွေ, ဆွမ်းဒကာ ဆွမ်းအမတွေ, ဘုန်းကြီးနဲ့ ဘဝသံသရာမှာ ပါရမီဖြည့်ဖက်တွေ၊ အခု ဘုန်းကြီးတို့ ကျောင်းတိုက်ကို ရပ်နီးရပ်ဝေးက လာပြီး ဝိုင်းပြီး ကူညီထောက်ပံ့နေကြတဲ့ ဒကာ ဒကာမတွေ အကုန်လုံးကိုပဲ ဆိုလိုတာ။

## မပျက်ပြားတဲ့ အစလသဒ္ဒါနှင့်

"အခု ဒီနား နီးနီးစပ်စပ်ဆိုရင် ဒကာမြညွန့်တို့၊ ဒကာထွန်းအေးတို့၊ ဒကာမောင်မောင်တို့၊ ဒကာ မြညွန့်ဆိုရင် ကြာလှပြီ၊ ဒီကျောင်းတိုက် တည်စ ထောင်စကတည်းက ဝေယျာဝစ္စဆောင်ရွက်နေတာ။

စောစောပိုင်းတုန်းက ဥပုသ်နေ့တွေမှာ ဒီကျောင်း တိုက်ကို လာကြတဲ့ ဥပုသ်သည်တွေကို အကျိုးရှိပါ စေတော့လို့ ဘုန်းကြီးက တရားဟောပေးခဲ့တယ်၊ ဒကာ မြညွန့်တို့၊ ဒကာ မောင်ဗိုလ်တို့ဆိုတာ အဲဒီ တုန်းက ထွေးခံဆေး, ဖျာခင်းအထိ အောက်ခြေ သိမ်း ဆောင်ရွက်လာခဲ့ကြတာ။

သူတို့ သဒ္ဒါတရားတွေဟာ ခိုင်မာကြပါတယ်၊ မပျက်ခဲ့ဘူး၊ အခုအထိပဲ၊ အဲဒီတုန်းက သူ့စီးပွားရေး လဲ သိပ်မရှိသေးပါဘူး၊ နောက်မှ သံဃာတွေနဲ့ အတူ တူ နေရတာ စီးပွားတက်တယ်လို့ ယူဆသလား မသိဘူး။

အခု ဒီကျောင်းထဲမှာ သံဃာတွေ နေဖို့တဲ့၊ တိုက်ကြီးတစ်လုံး ဆောက်လှူတယ်၊ သူတို့ အိမ်မှာတော့လဲ သူတို့မိသားစု ဖြစ်သလို နေတာပါပဲ၊ အဲသလို သံဃာတွေအပေါ်မှာ ယုံကြည်တာ, သာသနာပေါ်မှာ အားကိုးတာ၊ ဒီတော့ ဘုန်းကြီးဆိုလိုချင်တာက အခုလို ဘုရားရှင်ရဲ့ သာသနာအပေါ်မှာ ယုံကြည်တဲ့ ဒါယကာ ဒါယိကာမတွေ, အခြား ဒါယကာ ဒါယိကာမတွေရော အားလုံးပေါ့လေ။...

"ဘုရားမြတ်စွာသာသနာ"ဆိုတဲ့ စိတ်ဓာတ်နှင့်, ဘုန်းကြီးအပေါ်လောက်တွင် သံယောဇဉ်မထားနှင့်, ဒါက နယ်ကျဉ်းတယ်၊ "ဘုရားမြတ်စွာသာသနာ" ဆိုတဲ့ စိတ်ဓာတ်နှင့် ကျယ်ကျယ်ပြန့်ပြန့် ထားပြီး တော့ ဆရာ ဒကာတွေ ညီညီနှိုင်းနှိုင်း တိုင်တိုင် ပင်ပင် လျှောက်လျှောက်ထားထားနဲ့ ဝိုင်းဝန်းစောင့် ရှောက်ကြလို့ ဆိုလိုတာ"။

ဤသို့လျှင် ဆရာတော်က မြော်မြော်မြင်မြင် မိန့်မှာနေတော့သည်။

## ဆရာတော် အရှင်ဇနကာဘိဝံသ ပြစ်စေချင်သော မဟာဂန္ဓာရုံကျောင်းတိုက်ကြီး ပျက်အစဉ် ပြင်ခဏဆိုတာလို

ဦးပဋ္ဌင်းတို့ ကိုရင်တို့ မေ့မေ့လျော့လျော့ မနေ ကြနဲ့၊ ကိုယ့်ဘဝကိုယ် စိစစ်သုံးသပ်တဲ့အလေ့ ရှိကြ ရမယ်၊ ဒီအလေ့ကို ပထမတော့ တစ်နေ့ တစ်ရက်က စပြီး လေ့ကျင့်ရတာပဲ။

တစ်နေ့ကုန်လို့ ညပိုင်းရောက်လာပြီဆိုရင် "ဒီ ကနေ့ ငါဘာတွေ လုပ်ခဲ့သလဲ, ကာယကံ ဝစီကံ မနောကံတွေ အကောင်းက များသလား, မကောင်း တွေက များသလား"လို့ ပြန်လည် သုံးသပ်ကြည့်။

အကောင်းတွေက များရင်တော့ အဲဒီအတိုင်း ဆက်လက်ကျင့်သုံး, မကောင်းတာတွေ များရင် တော့ ပြင်ရမယ်၊ ကိုယ့်ကိုယ်ကို ပြင်ရမယ်၊ အဲဒီ အတိုင်းပေါ့လေ, တစ်လလုံး ခြုံကြည့်, တစ်နှစ်လုံး ခြုံကြည့်၊ မှားတာတွေ့ ပြင်၊ နောက်ဆုံး တစ်ဘဝလုံး ခြုံကြည့်, မှားတဲ့အချက်တွေ တွေ့ရင် ပြင်, ဒီလို သွားရမှာ၊ ဒီထက် စဉ်းစားနိုင်တဲ့သူတွေက ကိုယ့် တစ်မျိုးသားလုံးရဲ့ ဘဝကို ပြန်ကြည့်၊ ဥပမာ-နိုင်ငံ့ ခေါင်းဆောင်တွေက ကိုယ့်နိုင်ငံရဲ့သမိုင်းကြောင်းကို ပြန်ကြည့်, လိုတာရှိရင် ဖြည့်, ပျက်တာမြင်, ပြင်၊ ဒီလို သွားကြရမှာ။

"ပျက်အစဉ် ပြင်ခဏ"ဆိုတဲ့စကားပုံလဲ ရှိတယ် မဟုတ်လား၊ ပျက်တဲ့အတိုင်းထားရင် အစဉ်အမြဲ ကြီးလို ဖြစ်သွားရော၊ ပြင်လိုက်တော့လဲ ခဏပါပဲ၊ အကောင်းဖြစ်လာတယ်"။

ဆရာတော်သည် ယနေ့နံနက် မည်သည့် အကြောင်းကို ဩဝါဒပေးလိုသည် မသိ၊ ဤသို့ နိဒါန်းချီနေသည်။

## ရှေးမူဟောင်းသို့ ပြန်နေတာ

"ဒီအတိုင်းပဲ, ဘုန်းကြီးတို့ သာသနာတော်ကြီးရဲ့ သမိုင်းကြောင်းကိုလဲ ပြန်ကြည့်, အခု ပစ္စက္ခအခြေအနေကိုလဲ ကြည့်, သုံးသပ်၊ ယိုယွင်းတာတွေ့ရင် ပြင်သွားကြရမှာ၊ သူ့တာဝန် ကိုယ့်တာဝန်လို့ တွက်ကပ်နေလို့ မဖြစ်ဘူး။

ဒီနေရာမှာတော့ "ပြင်တယ်"ဆိုတာ "အသစ်" ထွင်ရမှာ မဟုတ်ဘူး၊ မူလက ကောင်းပြီးသား၊ ယိုယွင်းလာလို့ မူလအခြေအနေအတိုင်း ပြန်ဖြစ်အောင် (နဂိုအနေအတိုင်း ပြန်ရောက်အောင်) ကြိုးစားကြရမှာကို ဆိုလိုတာ၊ အခု "ဒီကျောင်းတိုက် သံယာတွေကို ဘုန်းကြီး ပြုပြင်နေတယ်"ဆိုတာ အသစ်ထွင်တာ မဟုတ်ပါဘူး၊ အသစ်တစ်ခုမှ မပါဘူး၊ မူလနဂိုနေ အဟောင်းကို ရောက်အောင် ပြန်ပို့နေတာပဲ၊ ဒါတောင် အကုန်မမီသေးဘူး။

ဥပမာ...ကျောင်းတိုက်အနေအထား ဆိုကြစို့, ဘုန်းကြီးက ဒီကျောင်းတိုက်ကို ရှေးတုန်းက ဘုရားလက်ထက်က ရှိခဲ့ဖူးတဲ့ ဝေဠုဝန်ကျောင်းတိုက်ကြီး, ဇေတဝန်ကျောင်းတိုက်ကြီး, ပုဗ္ဗာရုံကျောင်းတိုက်ကြီးတို့လို တိတ်တိတ်ဆိတ်ဆိတ် သန့်သန့်ရှင်းရှင်း ဖြစ်ပုံကို မှန်းပြီး အတုယူ ပြုပြင်နေတာ။

ဇီဝကရဲ့ "သရက်ဥယျဉ်ကျောင်းတိုက်ကြီး"ဆိုရင် သံယာတော် တစ်ထောင့်နှစ်ရာ့ငါးဆယ် (၁၂၅၀) သီတင်းသုံးတော်မူတာတဲ့၊ ဒါပေမယ့် တိတ်လို့ ဆိတ်လို့, သံယာရှိတယ်တောင် မထင်ရဘူးတဲ့။

ဒါ့ကြောင့် အဇာတသတ်မင်းကလေးက "ဇီဝကရဲ့, ဟုတ်မှ ဟုတ်ရဲ့လားဟဲ့၊ ငါ့ကို လုပ်ကြံဖို့ လူသူမနီးတောကြီးထဲကို ခေါ်လာတာလား"လို့တောင် သံသယ ဖြစ်ရတာ၊ အဲလောက် တိတ်ဆိတ်တာ၊ ဘုန်းကြီးက ဒါတွေ အတုယူပြီး ရှေးမူကို ပြန်နေတာ"။

## တိတ်ဆိတ်သလို သန့်ရှင်းပါစေ

"တိတ်ဆိတ်ရုံတွင်မကဘူး၊ သန့်ရှင်းမှုပါ ဖြစ်အောင် ကြိုးစားထားတယ်၊ ဒါလဲ ကျောင်းတိုက်ထဲမှာ သန့်ရှင်းမှု, ကိုယ်နေတဲ့ နေရာတိုင်းမှာ သန့်ရှင်းမှုကို ဘုရားရှင်ကိုယ်တော်မြတ် အထူးလိုလားတော်မူတာပဲ၊ ဒါ့ကြောင့်လဲ အရှင်သာရိပုတ္တရာကိုယ်တော်ကြီးဟာ တံမြက်လှည်းတဲ့ဝတ် မြဲခဲ့တာပဲ။

"မြဲခဲ့တာပဲ"ဆိုတာတောင် တစ်ခါတော့ လူသူမနီးတဲ့ တောကြီးမြက်မည်းထဲမှာ သမာပတ်ဝင်စားလိုက်တယ်၊ "လူသူမှ မရှိဘဲလေ"ဆိုပြီး တံမြက်မလှည်းဘဲ အမှိုက်တွေ သစ်ရွက်တွေ ကြားမှာ ထိုင်ပြီး သမာပတ်ဝင်စားလိုက်တာ။

ဒါကို ဘုရားရှင်သိတော့ ကြွလာပြီး အနားမှာ ခြေတော်ရာ ချသွားတယ်၊ သမာပတ်မှ ထတော့ ခြေတော်ရာကို "ဘွား"ခနဲ တွေ့တော့တာပေါ့၊ အရှင်သာရိပုတ္တရာလဲ တံမြက်မလှည်းမိတာကို နောင်တကြီးစွာ ရသွားပါသတဲ့။

အဲဒီနောက်တော့ အရှင်သာရိပုတ္တရာဟာ ရောက်လေရာ နေရာတကာမှာ တံမြက်လှည်းတဲ့ဝတ် ပိုပြီး မြဲသွားပါသတဲ့၊ ယုတ်စွအဆုံး သက်န်းရုံရင်း သက်န်းနားပတ်သီး တပ်ရင်းပင် ခြေထောက်ဖြင့် ယမ်း၍ မြေကြီးပေါ်က အမှိုက်သရိုက်စတွေကို ရှင်းလင်းပါသတဲ့။

ဒါကို ထောက်သောအားဖြင့် ရှေးကျောင်းတိုက်ကြီးတွေဟာ သန့်ရှင်းတယ်လို့ သိနိုင်ပါတယ်၊ ဘုန်းကြီးက ဒါကို အတုယူပြီး ရှေးမူပြန်နေတာ။

ဆရာတော်က အားရပါးရ ပြောနေသည်၊ ဤကဲ့သို့ ပြုပြင်ရေး အကြောင်းကို ပြောရလျှင် မောသည်ဟု မထင်တတ်၊ ဆက်လက် ပြောနေပြန်သည်။

## ရှေးမူဟောင်းက ကောင်းလွန်းလို့

"ဒီလို တိတ်ဆိတ်သန့်ရှင်းတဲ့ ကျောင်းတိုက်ကြီး တွေထဲနေတဲ့ သံဃာကိုလဲ ရှေးခေတ်ကို လှမ်းမျှော်ကြည့်တော့ သင်္ကန်းအသွေးအရောင်က သစ်ခေါက်ဆိုးရောင်တွေလို့ စာထဲမှာ တွေ့ရတယ်၊ ဒါဟာ ဣန္ဒြေရတဲ့ အရောင်ပဲလေလို့ ဘုန်းကြီးတို့လဲ လက်ခံထားတယ်၊ ဒါလဲ ရှေးမူပဲ။

စားသောက်ကြတဲ့အခါမှာလဲ သပိတ်တွေနှင့် ဘုဉ်းပေးကြတယ်လို့ စာထဲမှာ တွေ့ရတော့ ဒီမှာလဲ "သပိတ်နှင့်ဘုဉ်းပေးကြ"လို့ သတ်မှတ်ထားရတယ်၊ ရှေးမူပဲ။

သင်္ကန်းရုံတာ ရန်းတာကိုလဲ သပ်သပ်ရပ်ရပ် ရှိကြပစေလို့, အနေအထိုင် တစ်ပါးနှင့် တစ်ပါး ဆက်ဆံမှု, ယဉ်ကျေးမှုဆိုတာတွေလဲ စာထဲမှာ အပြည့်အစုံ ရှိတာပဲ၊ အဲဒီအတိုင်း စာထဲက ရနိုင်သမျှ ယူ, ရှေးဆရာ ဆရာတော်ကြီးများထံမှာလဲ ယူပြီး ဒီမှာ ကျင့်သုံးနေတယ်၊ ဒါဟာ ရှေးမူ ပြန်နေတာပေါ့။

စိတ်နေစိတ်ထား မြင့်မြတ်ဖို့နဲ့ ပတ်သက်လာရင်လဲ သုတ္တန်တရားတော်ကြီးတွေဟာ အရည်အချင်း အပြည့်အဝဖြစ်အောင် ပေးနိုင်ပါတယ်၊ ကာယကံ ဝစီကံ ယဉ်ကျေးအောင်တော့ ဝိနည်းပိဋကတ်တွေက တာဝန်ယူတယ်၊ အဲဒီမူတွေအရ ဒီမှာ ကျင့်သုံးနေတာပဲ ဒါဟာ ရှေးမူပြန်တာပေါ့။

အဲသလို ရှေးမူတွေက လိုက်လို့ မမှီအောင် ကောင်းလွန်းလို့ ရှေးမူကို ပြန်နေတာ၊ ဒီနေရာမှာတော့ ရာဇဝင်ဘီး နောက်ပြန်လိမ့်တယ်ဆိုဆို, ဘာဆိုဆို, ဆိုချင်ရာ ဆို, ရှေးမူထက် ဘယ်သူမှ ပိုမကောင်းနိုင်ဘူး။

ဒါ့ကြောင့် ရှေးမူကို ပြန်နေတာပဲ၊ ခေတ်မီအောင် ထွင်နေတာ မဟုတ်ဘူး"။

## ဝိနည်းသာသနာထွန်းကားအောင်

"ခေတ်မီဖို့ ဆိုတာကတော့ "အသိပညာပိုင်းဆိုင်ရာ"တစ်ခုပဲလို့ ဘုန်းကြီးတို့က လက်ခံတယ်၊ အဲ-အသိဉာဏ်ပညာပိုင်းမှာတော့ ခေတ်နောက် ကျန်မနေရစ်စေနဲ့, ခေတ်နှင့် ရင်ပေါင်တန်းလိုက်နိုင်ပါစေ, တတ်နိုင်ရင် ခေတ်ရှေ့က ဦးဆောင်နိုင်ပါစေ။

ဒီမူတွေနှင့် ဒီကျောင်းတိုက်ကို ဒီသံဃာတွေကို ပြုပြင်နေတယ်၊ "ပြုပြင်တယ်"ဆိုပေမယ့် ဘုန်းကြီး အသစ်ထွင်တာ မဟုတ်ဘူးနော်, အသစ်ထွင်တာ တစ်ခုမှ မပါဘူး၊ ရှေးမူဟောင်းကို ပြန်နေတာ၊ ဒါပြောပြီးပြီ၊ ဒါကို အသစ်ထွင်တယ် မှတ်နေကြတာ၊ အခုခေတ် အများနှင့် မတူတော့ အသစ်လို ထင်နေရတာပေါ့, မဟုတ်ဘူး၊ ရှေးမူဟောင်း ပြန်ဖြစ်သွားတာ၊ ဒါကို ဒါယကာ ဒါယိကာမများကလဲ လက်ခံနေကြ တယ်, ကြည်ညိုကြတယ်။

အမှန်ကတော့ ဘုရားရှင်ရဲ့ ဝိနည်းသိက္ခာပုဒ်တော်တွေနှင့် ညီအောင်နေလို့ ညီလုခါနီးဖြစ်အောင် နေလို့ ကျေနပ်ကြည်ညိုကြတာပဲ။

အချုပ်ပြောတော့ သီလသိက္ခာရှေ့တန်းတင်တဲ့ ဝိနည်းသာသနာဖြစ်လာလို့ ကျေနပ်တဲ့သဘောပဲ၊ စာတော်လို့ မဟုတ်ဘူး၊ ဒါကြောင့် ရှေးမူဟောင်းကို ရောက်အောင် ပြန်ပြီး ဝိနည်းသာသနာ ထွန်းကားအောင် ကြိုးစားကြရမယ်။

ဦးပဉ္စင်းတို့ ကိုရင်တို့...ပေါ့ပေါ့ကလေးနေမယ် စိတ်မကူးကြနဲ့, သာသနာမှာ နေရင်တော့ ကောင်းကောင်းနေမှ ဖြစ်မယ်, မနေနိုင်ရင် လူထွက်ကြပေါ့"။

ဆရာတော်ကား ဤကဲ့သို့ ကျင့်သုံးမှုနှင့် ပတ်သက်လာလျှင် လျှော့ပေးသည်မရှိချေ၊ ယခုလို သံဃာများလာမှ မဟုတ်၊ ကျောင်းတိုက်ထည်စ တစ်ပါးနှစ်ပါး ရှိစဉ်ကလည်း ဤမူအတိုင်းပင် ဖြစ်တော့သည်။

## စိတ်တော် မိုးသို့ မမြင့်ကြနှင့်

ဆရာတော်က ဆက်လက် မိန့်နေပြန်၏၊ ... ကျောင်းတိုက်နှင့် သံဃာတော်များ၏ အပြင်ပိုင်း ရုပ်ဝတ္ထု ငြိမ်သက်အောင်, သန့်ရှင်း တိတ်ဆိတ်အောင် ပြုပြင်ခဲ့ပုံတို့ကို မိန့်ကြားပြီးနောက် အတွင်းပိုင်း စိတ်နေစိတ်ထား ယဉ်ကျေးအောင် စောင့်စည်းကြရမည်ကိုလည်း ဆက်လက် မိန့်နေပြန်သည်။

"ဒါယကာ ဒါယိကာမတွေဟာ အလွန် တာဝန်ကျေကြပါတယ်၊ သံဃာကလေးတွေက အနေအထိုင် အဝတ်အစား ကျစ်ကျစ်လျစ်လျစ်နဲ့ ကြည်ညိုဖွယ်ကလေးတွေ နေကြတယ်ဆိုရင်ပဲ ကျောင်းကန်နှင့် ဆွမ်းဘောဇဉ်တွေဆိုတာ အလျှံပယ် ဖြစ်လာတော့တာပဲ။

ဒီတော့ ဦးပဥ္စင်းတို့ ကိုရင်တို့က ဒီ ကျောင်းကန်ကြီးတွေပေါ် နေပြီး စိတ်တော် မိုးသို့ မမြင့်လိုက်ကြပါနဲ့၊ စာဆိုတစ်ခု ရှိတယ်။

**"ကျောင်းကြီးကန်ပေါ်, စက်တော်ခေါ်, စိတ်တော်မိုးသို့ မြင့်လတ္တံ့."**တဲ့။

ဒါယကာ ဒါယိကာမတွေက တကယ့် သဒ္ဓါတရားနှင့် ဆောက်လုပ်ပေးတဲ့ ကျောင်းကြီးတွေပေါ်မှာ နေတယ်ဆိုတာ ထိုက်တန်အောင် နေကြပါ၊ နေထိုက်လောက်အောင် စိတ်ထား မြင့်မြတ်ကြပါစေ၊ သူတော်ကောင်းစိတ်ဓာတ် ဖြစ်အောင် ပြုပြင် နေကြပါ၊ ဒါ့ကြောင့် ဘုန်းကြီးက စည်းကမ်း ၁၀ ချက် ရေးထားတာ၊ ဒီကျောင်းတိုက်မှာ နေရင်...

၁။ စိတ်ကောင်းရှိဖို့က - ပထမ၊
၂။ ဝိနည်းလေးစားဖို့က - ဒုတိယ၊
၃။ ကျန်းမာဖို့က - တတိယ၊
၄။ သန့်ရှင်းဖို့က - စတုတ္ထ၊
စသည်ဖြင့် ရေးသားပြီးတော့
၁၀။ စာတတ်ဖို့က - ဒသမလို့ သတ်မှတ်ခဲ့တယ်"။

## ဖြစ်သင့်တဲ့ ကျောင်းတိုက်အနေအထား

"ဒီကျောင်းတိုက်မှာ စာတတ်ဖို့ကို အဓိကမထားနိုင်ဘူး၊ စိတ်ကောင်းရှိဖို့, ဝိနည်းလေးစားဖို့, သီလဖြူစင်ဖို့တွေကိုသာ အဓိကထားပြီး ရှေ့တန်းတင်ရလိမ့်မယ်၊ သာသနာမှာ အဲဒီလို ပုဂ္ဂိုလ်မျိုးတွေသာ ရှိသင့်တယ်လို့ ဘုန်းကြီးက ယူဆတယ်။

ဒါ့ကြောင့် စကား တိုးတိုး ပြောပါ၊ စာကို တိုးတိုး ကျက်ပါ၊ တိုးတိုး ပြန်ပါ၊ စာမတတ်လို့ အပါယ်မကျနိုင်ဘူး၊ ကောင်းကောင်း မနေရင်တော့ အပါယ်ကျမှာပဲ၊ ဒါ့ကြောင့် ကောင်းကောင်း နေပါ၊ အကြောင်းအားလျော်စွာ ကိုယ့်ဆိုင်ရာ ဒကာ ဒကာမတွေ လာရင်လဲ တိုးတိုး စကားပြောပါစေ။

လုံလောက်တဲ့ အကြောင်းမရှိဘဲနဲ့ ခဏ ခဏ မလာကြပါစေနဲ့၊ လာပြန်လို့ရှိရင်လဲ အမျိုးသမီးများဆိုရင် ယောကျ်ားအဖော် ပါပစေ၊ ဒါမှမဟုတ် အုပ်ထိန်းသူ ပါပစေ။

ပြီးတော့ အမျိုးသမီးများဟာ လက်ပြတ်အင်္ကျီကလေးတွေနဲ့ မလုံမလဲ အင်္ကျီကလေးတွေနဲ့ မလာပါစေနဲ့၊ ဆိုင်ရာ ပုဂ္ဂိုလ်တွေက သတိပေးကြပါ၊ ကိစ္စပြီးရင်လဲ အချိန်ဆွဲမနေနဲ့၊ မြန်မြန်ပြန်။

ဘုန်းတော်ကြီးများ ကျောင်းတိုက်, သံဃာတော်များ နေထိုင်ရာ ကျောင်းတိုက်ဆိုတာ (**ဒိဝါ အပ္ပာကိဏ္ဏံ, ရတ္တိံ အပ္ပသဒ္ဒံ အပ္ပနိဂ္ဃောသံ**) ဆိုတဲ့အတိုင်း နေ့အခါမှာ သွားလာ ဝင်ထွက်တဲ့ လူတို့နှင့် မရောပြွမ်းရဘူး၊ ညပိုင်းအခါမှာလဲ လူတို့ ပြောသံ ဆိုသံ ရယ်မောသံနှင့် (အုတ်အုတ် အုတ်အုတ်) မြို့ရွာ အူသံ ဆူညံမှု မရှိတဲ့ အရပ်မျိုး ဖြစ်ရမယ်တဲ့"။

## ချိန်းကြိုး၏အားသည် ချိန်းကွင်းတစ်ခုစီမှာ

"အခု ဘုန်းကြီးတို့ကျောင်းတိုက်က ကံအားလျော်စွာ အဲဒီ အနေအထားမျိုး ဖြစ်အောင် ဖန်တီးနိုင်ဖို့ အခွင့်အရေး ရနေတယ်၊ ဒါကို လက်လွှတ်ခံလို့ မဖြစ်ဘူး၊ သန့်ရှင်းတိတ်ဆိတ်ငြိမ်သက်တဲ့ ကျောင်းတိုက်ကြီး ဖြစ်စေရမယ်။

ပြီးတော့ ဒါယကာ ဒါယိကာမတွေလာတဲ့အခါ သံဃိကကျောင်းတွေပေါ်မှာ ဆေးလိပ်ပြာတွေ အန့်အပြား၊ ကွမ်းသွေးတွေ ဟိုထွေး ဒီထွေး၊ ဘယ်လောက် အပြစ်ကြီးတယ်ဆိုတာ သူတို့ မသိကြဘူး။

ဆိုင်ရာပုဂ္ဂိုလ်တွေက တားမြစ်ပါ၊ အမှန်က ဒီကျောင်းတိုက်မှာ ဆေးလိပ်၊ ကွမ်း လက်မခံဘူး ဆိုတာ သူတို့ သိရမှာပေါ့၊ သိရင် ခဏလာတဲ့ အခိုက်ကလေးပဲ သူတို့ ရှောင်ကြဉ်သင့်တယ်၊ ဆေးလိပ်တို့ ကွမ်းယာတို့ဆိုတာ ပြောရင်တော့ အကျယ်ကြီး၊ တချို့က ပြောကြတယ်၊ မွန်းလွဲပိုင်းသာ မအပ်တာပါ၊ မနက်ပိုင်းတော့ အပ်ပါတယ်တဲ့၊ ဘာပဲဖြစ်ဖြစ် ဒီကျောင်းတိုက်မှာတော့ မနက်ပိုင်းရော၊ မွန်းလွဲပိုင်းရော ဆေးလိပ် ကွမ်းယာ လက်မခံဘူး။

ဘုန်းကြီး ချမှတ်ထားတဲ့ စည်းကမ်းတွေကို အားလုံး လိုက်နာကြပါ၊ တစ်ပါးမကျန် လိုက်နာမှလည်း "မူ"တစ်ရပ်ဟာ အောင်မြင်တယ်လို့ ဆိုရပါမယ်။

"ချိန်းကြိုးတစ်ခု၏ အင်အားသည် ချိန်းကွင်းကလေးများ တစ်ခုစီမှာ တည်သည်၊ ချိန်းကွင်းကလေးများတွင်လည်း အချည့်နဲ့ဆုံး ချိန်းကွင်းကလေးမှာ တည်သည်"ဆိုတဲ့ စကားပုံတစ်ခုရှိတယ်။

## ချိန်းကြိုးကွင်းတိုင်း ခိုင်မာနေပါစေ

အဓိပ္ပာယ်က ဆင်ကြီးတွေကို ချည်နှောင်တဲ့ ချိန်းကြိုး၊ ကမ်းစပ်မှာ သင်္ဘောကြီးတွေကို ချည်တဲ့ ချိန်းကြိုးတစ်ခုရဲ့ အင်အားဟာ ချိန်းကွင်းတစ်ခုစီ တစ်ခုစီမှာ တည်တယ်တဲ့၊ ချိန်းခွင်းတစ်ခုခုက မခိုင်ရင် ချည်နှောင်ထားတာတွေ အကုန်လွင့်ကုန်မှာပဲ။

အဲဒီ ချိန်းကြိုးကွင်းများတွင်လည်း အင်အား အချည့်နဲ့ဆုံး ချိန်းကွင်းကလေးမှာ တည်တယ်တဲ့၊ အဲဒီ ချိန်းကွင်းကလေးက ပြတ်ရင်လည်း အကုန်လုံး လွင့်ကုန်မှာပဲ။

ဆိုလိုတာက ဘုန်းကြီး ချမှတ်ပေးထားတဲ့ မူစနစ်တွေ၊ စည်းကမ်းတွေကိုလဲ အကုန်လုံးက လိုက်နာမှ တစည်းတရုံးတည်း မပျက်ပြားဘဲ နေမှာပဲ၊ တစ်ပါးပါးက ဖောက်ရင်တော့ ဒါဟာ အချည့်နဲ့ဆုံး ချိန်းကွင်းကလေးပဲ၊ ပျက်ပြားကုန်မှာပဲ၊ ဒါ့ကြောင့် သတိရှိကြပါ။

အခုဆိုရင် ဘုန်းကြီးတို့ သံဃာတွေ ၅၀၀ ကျော်လုံး မိသားစုလို နေကြ ထိုင်ကြတယ်၊ အတူနေ အတူစား (တစ်အိုးတည်းစား)တွေ ညီညီညွတ်ညွတ် ရှိကြတယ်၊ အခုလို ညီညီညွတ်ညွတ် နေနိုင်ကြတာဟာ အတူနေ အတူစား ဖြစ်ကြတဲ့အပြင် ကျောင်းတိုက်ထဲမှာ တစ်ကျောင်းနှင့်တစ်ကျောင်း ပရိဝုဏ် အကန့်မခြားခြင်း၊ ခေါင်းဆောင်ဆရာက တစ်ပါးတည်း ဖြစ်၍ တစ်ဩဝါဒတည်း ဖြစ်ခြင်းတွေလဲ ပါတယ်။

ဒီအကြောင်းတွေကြောင့် တစည်းတရုံးတည်း တစ်နေရာတည်းမှာ နံနက်ခင်း ဩဝါဒပေးလို့ ရခြင်းလဲ ဖြစ်တယ်၊ ဒီမူစနစ်ဟာ စိတ်ချမ်းသာ ကိုယ်ချမ်းမြေ့လည်း ဖြစ်တယ်၊

ဒါ့ကြောင့် မပျက်အောင် ဆက်လက်ထိန်းသိမ်းကြပါ"။

ဆရာတော်သည် မည်သို့ မျှော်မြင်၍ ဩဝါဒပေးနေသည် မသိ၊ ဤသို့လျှင် ရှည်လျားသော ဩဝါဒကြီးကို မိန့်မြွက်နေပါတော့သည်။

## အကုသိုလ်နည်းပါးအောင် ကြိုးစားနေခြင်း သေဖို့ မကြောက်ရအောင် ပြင်နေတယ်

ရှေးတုန်းကဆိုလျှင် စာချပြီးပါက (အထူးအားဖြင့် နံနက်စောစော ဩဝါဒ ပေးပြီးပါက) လက်စွဲတော် တောင်ဝှေးကြီးတစ်ချောင်းဖြင့် ကျောင်းတိုက်ထဲမှာ တစ်ပတ်လောက်တော့ လှည့်ပတ်ကြည့်ရှုတော်မူတတ်၏၊ အညောင်းပြေ စင်္ကြံလျှောက်ပြီးလည်း ဖြစ်, မသင့်တော်ရာကို တွေ့ရလျှင်လည်း ဆုံးမလမ်းညွှန်ပြီး ဖြစ်အောင် ရည်ရွယ်တော်မူပါလိမ့်မည်။

ဤသို့ တစ်ပါးတည်းသာ ရှေးယခင်က လှည့်ပတ် လာခဲ့ရာမှ နောက်ပိုင်းတွင်မူ စာချဘုန်းကြီး ဦးကုဏ္ဍလကိုပါ (ပဏ္ဍာသမဏ)ခေါ်၍ ခေါ်၍ လှည့်တတ်သည်၊ ယခု ဝါကျွင်း၌ကား ကျန်းမာရေးချို့ချာမှုကလေးများ ရှိ၍လော မသိ၊ မလှည့်ပတ်သည်မှာ အတော် ကြာပေပြီ၊

"အကုသိုလ်နည်းပါးအောင် ကြိုးစားပြီးနေတယ်၊ သေဖို့ ပြင်နေတယ်"ဟု ဩဝါဒပေးရာတွင် မကြာမကြာ ထည့်သွင်း မိန့်တတ်၏၊ "ဘုန်းကြီးက ဘယ်လို ပြင်နေသလဲဆိုတော့ သမ္မပ္ပဓာန် လုံ့လဝီရိယ အတိုင်းပေါ့၊ အကုသိုလ် ဖြစ်မယ့်ကိစ္စ ကြုံလာတဲ့အခါ ကြာကြာမဖြစ်စေဘဲ သတိထားပြီး ချက်ချင်း ရပ်ပစ်လိုက်တယ်၊ ကုသိုလ်ဆိုင်ရာကိစ္စတွေမှာတော့ မှန်မှန် တိုးပွားဖို့ အချိန်ရှိသမျှ ကြိုးစားနေပါတယ်"ဟူ၍ ဖြစ်သည်။

ဒီလို သတိ ဝီရိယဖြင့် မှန်မှန် ကြိုးစားနေရတာက သေရေးအတွက် မကြောက်ရအောင်လို့ပါပဲ" ဟူ၍လည်း ရည်ရွယ်ချက်ပါ ထည့်သွင်းမိန့်တော်မူတတ်သည်၊ "ဘုန်းကြီးက ကိုယ်ကိုယ်ကို မေးကြည့်တယ် "သေရမှာ ကြောက်သလား"လို့, ဒီတော့-

* **သောဟံ ကိဿ နု ဘာယိဿံ,**
**ယဿ မေ နတ္ထိ ဒုက္ကဋံ၊**
**ကာယေန ဝါစာ မနသာ,**
**ယေန ဂစ္ဆေယျ ဒုဂ္ဂတိံ။**

"ဒုဂ္ဂတိရောက်သွားနိုင်လောက်အောင် မကောင်းသော ကိုယ် နှုတ် စိတ်တို့ဖြင့် ပြုထားမိသော အကုသိုလ်များ ငါ့မှာ မရှိ၊ ဒါ့ကြောင့် သေရမှာ ဘာလို့ ကြောက်ရမှာလဲ"ဒီလိုပဲ ဘုန်းကြီးယုံကြည်ထားတယ်၊ သိထားတယ်၊ ဒါကြောင့် သေရမှာ မကြောက်ပါဘူး၊ သေရမှာ မကြောက်ရအောင်လဲ ကြိုးစားနေပါတယ်, သေဖို့ ပြင်နေပါတယ်"ဟု မိန့်တတ်သည်။

**"သေရေး နေရေး, နှစ်ထွေအေးဖို့,**
**လေးလေးနက်နက်, စဉ်းစားလျက်ပင်,**
**နေ့ရက်လတွေ, ကုန်သွားလေလည်း,**
**စိတ်နေမပြောင်း, စိတ်ထားကောင်း၍,**
**စိတ်ကောင်းမပျက်, မလှုပ်ယှက်ဘဲ,**
**စိတ်စက်တည်ကြည်, သေဖို့ရည်သည်...,**
**သေမည် မကြောက်အောင်တကား။"**

## လူက အိုလာတော့ ကံပါ အိုလာသလိုဖြစ်

ဤသို့ အကုသိုလ်များကို ဖယ်ရှား၍ ကုသိုလ်တွေ များများဖြစ်အောင် ကြိုးစားနေသည့်ကြားကပင် သီတင်းမကျွတ်ခင်မှာ မျက်မှေးရောင်ရောဂါက ဒုတိယအကြိမ် ဝင်လာပြန်သေးသည်၊ ဒေါက်တာသန်းရင်ကို ပြ၍ ကုသမှ ပျောက်သွားတော့၏။

ထိုသို့ ပျောက်၍မှ မကြာသေးခင် သီတင်းကျွတ်လပြည့်ကျော် ၈ ရက်နေ့မှာ ရေချိုးခန်းထဲတွင် ရေချိုးအပြီး ချော်လဲပြန်၏၊ အုတ်ခုံနှင့်တိုက်မိပြီး ဦးခေါင်းမှာ အနည်းငယ် ပေါက်သွားသည်၊ အကုသိုလ်များ ဇွတ်ဝင်လာကြလေပြီလော။

ယင်းဒဏ်ရာကိုလည်း ဆရာဝန်တို့က ဆေးထည့်ပေးကြသဖြင့် ၁၀ ရက်လောက်အကြာတွင် ပျောက်ကင်းသွားတော့သည်၊ ဆရာတော်က အမိန့်ရှိ၏၊ "အချို့က ပြောကြတယ်၊ ကံမကောင်းသည့်အထဲ ဒါလောက်နှင့် ပြီးသွားတာ ကံကောင်းတာပေါ့"တဲ့၊ တချို့များ ခြေကျိုး လက်ကျိုးတောင် ဖြစ်ကြတယ်တဲ့၊ ဟုတ်မှာပဲ"။ သီတင်းကျွတ်သောအခါ တောင်ဝှေးကြီးတစ်ချောင်းဖြင့် ကျောင်းတိုက်

* **ဓမ္မပဒအဋ္ဌကထာ – ၂၀၈။**

အတွင်းသို့ တစ်ပတ်လှည့်လည် ကြည့်ရှု၏၊ ယခု သီတင်းကျွတ်လကုန်၍ တန်ဆောင်မုန်းသို့ ရောက်လာခဲ့ပြီ၊ ပြုစုခဲ့သည့် ကံများက အိုရ၍ ခနော်ခနဲ့ ဖြစ်လာသော်လည်း အခြားတစ်ဖက်က ဖေးမပြုစုမည့် ဒေါက်တာများ ရှိနေသည့် ကံကား ကောင်းနေပြန်သည်။

မန္တလေးဆေးရုံကြီးမှ သမားတော်ကြီးဒေါက်တာဦးထွန်းသင်က မနှစ်တုန်းက ဤတန်ဆောင်မုန်းလအချိန်မှာပင် ဆရာတော်၏ကျန်းမာရေးကို စစ်ဆေးပေးခဲ့သည်၊ ယခုနှစ်လည်း မနှစ်ကလိုပင် နှလုံးစမ်းသပ်သည့် စက်များနှင့်အတူ လာရောက် စစ်ဆေးပေးသည်၊ "မနှစ်ကနှင့် မတူဘူး"ဟု ပြောကြ၏၊ ဘာမတူသလဲကား မသိရပေ၊ "သာ၍ သေချာအောင် ဓာတ်မှန်ရိုက်ပါ"ဟု ဆရာဝန်တို့က လျှောက်ကြသဖြင့် မန္တလေးဆေးရုံကြီးသို့ လိုက်ပြီး ဓာတ်မှန်ရိုက်ရသည်၊ ဆေး ၂ မျိုးကိုလည်း ၁၂ ရက်စာ ပေးလိုက်၏၊ အမှန်မှာ ဆေးစားခိုင်းခြင်းသည် ရောဂါရှာခြင်း ဖြစ်ဟန်တူသည်၊ ဆေးစားပြီးသောအခါ နောက်ထပ် ဓာတ်မှန်ရိုက်ရပြန်၏၊ ဆေးအမျိုးအမည်တို့ကိုလည်း ထပ်မံ ပေးလိုက်ပြန်သည်။

ယခုအခါ ဟိုနားဒီနား သွားသည့်အထဲတွင် လဲမှာပင် စိုးရိမ်နေသလို မရဲတရဲ ဖြစ်နေရသည်၊ အိုလာသည့်အခါ ခန္ဓာကိုယ်မှာရှိသည့် အရိုးတွေ အကြောတွေက ခန္ဓာကိုယ်ကို (မအိုခင်တုန်းကလို) ဆောင်နိုင်ဟန် မတူတော့ချေ၊ ရှေး ဆရာတော် မထေရ်မြတ်ကြီးများကလည်း ဤသဘောမျိုး မိန့်တော်မူကြသည်။

**ဇိဏ္ဏာ အဋ္ဌီ စ နှာရူ စ,**
**ဂတ္တာနိ န ဝဟန္တိ မေ၊**
**ဇိဏ္ဏောဝ သကဋော ဘာရံ,**
**သာယံ လောကဿ ဓမ္မတာ။**

အဋ္ဌီ စ-အရိုးတို့သည်လည်းကောင်း၊ နှာရူ စ-အကြောတို့သည်လည်းကောင်း၊ ဇိဏ္ဏာ-ဆွေးမြေ့ယိုယွင်း, အိုမင်းရင့်ရော်လာကြကုန်သည် ဖြစ်၍၊ မေ-ငါ၏၊ ဂတ္တာနိ-ခန္ဓာကိုယ်အစိတ်အပိုင်းတို့ကို၊ န ဝဟန္တိ - မဆောင်ရွက်နိုင်ကြတော့ကုန်၊ (ကိမိဝ-အဘယ်ကဲ့သို့နည်း၊) ဇိဏ္ဏော-ဆွေးမြေ့ယိုယွင်း, အိုမင်းလာသော၊ သကဋော-လှည်းအိုကြီးသည်၊ ဘာရံ-ဝန်ကို၊ (န ဝဟတိ ဣဝ-မဆောင်ရွက်နိုင်တော့သကဲ့သို့တည်း၊) သာယံ (သာ+အယံ)-ထိုသဘောသည်၊ လောကဿ ဓမ္မတာ-ဖြစ်ရိုးဖြစ်စဉ်လောကကြီး၏ အစဉ်အလာ ဓမ္မတာသာတည်း။

## ညီအစ်ကိုများ ဖြစ်ကြပါလျက် မျက်နှာဟိုဘက်လွှဲနေခြင်း

### တကယ်တော့ ညီအစ်ကိုများပါ

၁၃၃၉ ခု တန်ဆောင်မုန်းလဆန်း ၉ ရက်နေ့က ဖြစ်၏၊ တောင်ကိုရီးယားနိုင်ငံမှ ဘုန်းကြီး ၃ ပါး မဟာဂန္ဓာရုံကျောင်းတိုက်တွင်းသို့ မဝံ့မရဲ ဝင်လာကြသည်။

"ဘုန်းကြီး ၃ ပါး"ဆို၍ မြန်မာပြည်က ဘုန်းကြီးများလို ပုံပန်းအသွင် ဟူ၍ကား မထင်လိုက်ပါနှင့်၊ သူတို့ နိုင်ငံမှာ အေးသောနိုင်ငံဖြစ်၍ နွေးအောင် သူတို့ ထုံးစံအတိုင်း ဘောင်းဘီ အင်္ကျီဝတ်ကြသော မဟာယာနဘုန်းတော်ကြီးများသာ ဖြစ်ပါ၏။

သို့ရာတွင် သူတို့ ၃ ပါးထဲမှာ အလတ်တစ်ပါးက ပုံစံတစ်မျိုး ဖြစ်သည်၊ ထိုင်းနိုင်ငံမှာ လွန်ခဲ့သော ၄ လလောက်က "ထေရဝါဒဘုန်းကြီး"အဖြစ် ပြောင်းလာခဲ့ပြီ ဆို၏၊ ထို့ကြောင့် ယိုးဒယားဘုန်းကြီးများ အတိုင်း ဝတ်ရုံလာသည်။

"သူတို့ ၃ ပါး ဘာကိစ္စ လာကြသလဲ"ဟု သိချင်ကြ, မေးချင်ကြလိမ့်မည်၊ အတိုချုပ်ဖြေရလျှင်ကား "မဟာဂန္ဓာရုံကျောင်းတိုက်ကို လေ့လာလို၍ပင် ဖြစ်ပါ၏"။

ထေရဝါဒဘုန်းကြီးအဖြစ် ပြောင်းလာသော အလတ်ကိုယ်တော်က ရှေးတုန်းကပင် မြန်မာပြည်ကို နှစ်ကြိမ် ရောက်ဖူးခဲ့ပြီ။

ပထမဦးဆုံးအကြိမ်က တောင်သမန် ဦးပိန်တံတားရှည်ကြီးကို လေ့လာဖို့ အသွားတွင် မဟာဂန္ဓာရုံကျောင်းတိုက် အစပ်မှ ဖြတ်၍ သွားခဲ့ရာ ကျောင်းတိုက်၏ သန့်ရှင်းပုံ သာယာပုံ အေးချမ်းတိတ်ဆိတ်ပုံတို့ကို သတိထားခဲ့မိပါသတဲ့။

## ရှင်ရဟန်းဆိုတာ ရှီးရှီးကလေးနေမှ

နောက်တစ်ကြိမ် ကိုးရီးယား ဒါယကာ ဒါယိကာမများနှင့် လာသောအခါ ဆရာတော် အရှင်ဇနကာဘိဝံသကိုပါ ဝင်ရောက်ဖူးခဲ့ကြသတတ်၊ ထိုအခါ ဆရာတော့်အနား၌ ရေခဲသေတ္တာ ဆိုဖာထိုင်ခုံ ပန်ကာ အသံဖမ်းစက် စသော ခေတ်မီ အသုံးအဆောင်များ မရှိသည်ကို သတိထားမိခဲ့သတတ်၊ ထို့ကြောင့် ဆရာတော်၏ နေပုံ ထိုင်ပုံကို ဓာတ်ပုံအမျိုးမျိုးရိုက်ယူသွားခဲ့သည် ဟူ၏၊ သူတို့၏ ရှုမြင်ပုံ သုံးသပ်ပုံကား ဤသို့သာတည်း။

ကိုးရီးယားသို့ပြန်ရောက်သောအခါ (ဆရာတော် အရှင်ဇနကာဘိဝံသ၏ ရိုးသားစွာ နေထိုင်ပုံကို အားကျ၍) သူ့မှာ ရှိခဲ့သော ရေခဲသေတ္တာ ဆိုဖာထိုင်ခုံ ပန်ကာ စသော ခေတ်မီအသုံးအဆောင်များကို ဖယ်ရှားနိုင်ခဲ့သည် ဟူပါ၏၊ ယင်း၏ ဘွဲ့အမည်မှာ "အရှင်အမရဉာဏ"ဟု ခေါ်သတတ်။

အငယ်ဆုံး မဟာယာနဘုန်းကြီးကလည်း ယခင် တစ်ခေါက် မြန်မာပြည်သို့ ရောက်ခဲ့စဉ်က ဤမဟာဂန္ဓာရုံကျောင်းတိုက်ကို ဖြတ်၍ သွားစဉ် သန့်ရှင်းပုံ တိတ်ဆိတ်ပုံ အေးချမ်းသာယာပုံတို့ကို သတိထားမိခဲ့သတတ်၊ သို့နှင့် သူတို့နှစ်ပါးက ကိုးရီးယား၌ ထင်ရှားသော မဟာနာယကဘုန်းတော်ကြီး (ဂျာဝုန်း) သာသနာပိုင် ဂိုဏ်းချုပ်ကြီးအား ဤအကြောင်းကို ပြောပြသောအခါ "ကမ္ဘာလှည့်ရင်း ဝင်ကြမည်"ဟု တိုင်ပင်ခဲ့ကြဖူးသည် ဆို၏၊ ထို့ကြောင့် ရောက်လာကြခြင်း ဖြစ်လေသည်။

"မဟာယာနဘုန်းတော်ကြီးများ" ဆိုသော်လည်း စင်စစ်ကား "ထေရဝါဒဘုန်းကြီးများ"နှင့် ညီအစ်ကို အရင်းများပင် ဖြစ်ပါ၏၊ တစ်ဖတည်းသားများပင် ဖြစ်သည်၊ သို့ဖြစ်လျက်နှင့် မျက်နှာချင်း မဆိုင်ခဲ့ကြသည့် အကြောင်းများကိုကား ပြောရလျှင် ရှည်လျားပါသည်။

ဤနေရာတွင် ရပ်ထားပါမည်။

## မရဲမဝံ့ အရဲစွန့်၍ လာခဲ့ကြ

သူတို့သုံးပါး ကမ္ဘာလှည့်ခရီးထွက်လာသောအခါ မန္တလေးသို့ ရောက်လာခဲ့ကြ၏၊ ဟိုတယ်ဆိုင်ရာ ကားသမားကို အင်္ဂလိပ်လိုပြောတတ်သော အလတ်ကိုယ်တော်က ပြောပါသတဲ့။

"ဒီမန္တလေးမြို့ကြီးရဲ့ တောင်ဘက်မှာ သန့်ရှင်းသာယာ အေးချမ်းတိတ်ဆိတ်တဲ့ ကျောင်းတိုက်ကြီး တစ်ခု ရှိပါတယ်၊ အဲဒီ ကျောင်းတိုက်ကို ပို့ပေးစမ်းပါ၊ အဲဒီ ကျောင်းတိုက်မှာ အိပ်ခွင့် နေခွင့် လေ့လာခွင့်ရမယ်ဆိုရင် ဟိုတယ်ကို ပြန်မအိပ်တော့ပါ၊ အခွင့် မရရင်တော့ ပြန်အိပ်ပါမယ်"ဟု ပြောသောအခါ "ကြွပါ ကြွပါ, အခွင့်ရမှာပါပဲ"လို့ ဟိုတယ်က ပြောကြပါသတတ်။

ဟုတ်ပါသည်၊ သူတို့ဘက်ကနေ ကြည့်လျှင် အခွင့်ရမည် မရမည်ကို မသိနိုင်ပါ၊ ဘုန်းကြီးချင်း ဆိုသော်လည်း သူတို့က မဟာယာန, ဒီက ထေရဝါဒ၊ ဝါဒချင်း မတူဘူးဆိုပြီး‧မောင်းချမှုဖြင့် ဒုက္ခ ဤသို့ ရင်ထဲ နှလုံးထဲမှာ လှုပ်ရှားသော သံသယတို့ဖြင့် ခံစားနေမိကြသည် ဆို၏၊ ကျောင်းတိုက်ကြီး၏ အရှိန်အဝါ, ဆရာတော်ဘုရားကြီး၏ အရှိန်အဝါတို့ကလည်း ကြီးမားလှသည် မဟုတ်ပါလော။

ထို့ကြောင့် "အခွင့်ရမှ ရပါ့မလား" ဟူသော သံသယ ဝင်လာမည်ဆိုလျှင် ဝင်စရာပင် ဖြစ်ပါသည်၊ ထို့နောက်မှ "ဘာပဲဖြစ်ဖြစ်"ဟု အရဲစွန့်ကာ မဟာဂန္ဓာရုံတိုက်ထဲသို့ ဝင်လာခဲ့ကြခြင်း ဖြစ်သည် ဆို၏။

ဤကိစ္စကို စာချဘုန်းကြီးများမှတစ်ဆင့် ဆရာတော် အရှင်ဇနကာဘိဝံသ ထံ သွား၍ တင်ပြလျှောက်ထားသောအခါ အိပ်ခွင့် နေခွင့် လေ့လာခွင့် ပေးလိုက်ပါသည်၊ ထို့ကြောင့် ဦးစွာ ပထမ သူတို့ ဝမ်းသာသွားကြရသည်။

ထို့နောက်တွင် မဟာဂန္ဓာရုံတိုက်ထဲ၌ ဒုလ္လဘဝတ်နေသော, အင်္ဂလိပ်လို ကောင်းကောင်းပြောတတ်သော ဦးကုဏ္ဍလ (လေးမျက်နှာ)နှင့် စာချဘုန်းကြီး ဦးကုဏ္ဍလာဘိဝံသတို့အား ဆရာတော်က တာဝန်ပေး၏၊ "ကိုးရီးယားဘုန်းကြီးများ၏ စားသောက် နေထိုင်ရေး, ဧည့်ဝတ်ကျေအောင် ပြုစုစောင့်ရှောက်ရေးနှင့်တကွ စကားပြန်ပြုလုပ်ရေး အတွက်ပါ ဆောင်ရွက်ကြရမည်"။

## ဆရာတော်၏ ဆက်ဆံရေး မူဝါဒ

ဦးကုဏ္ဍလနှစ်ပါးက ကိုးရီးယားဘုန်းကြီးများအတွက် သီးသန့်ကျောင်း သီးသန့်နေရာများ ချထားစီမံပေးသောအခါ သူတို့မှာ အလွန်ဝမ်းသာနေသည့် လက္ခဏာများ ပေါ်နေ၏၊ အကြီးဆုံး မဟာနာယကဆရာတော်ကြီးမှာ သက်တော် ၆၈ နှစ်ရှိပေပြီ၊ မဟာနာယကနှင့် ထိုက်တန်အောင် ဣန္ဒြေကြီးရင့်လှပါ၏၊ မျက်နှာ ကြည်လင်သည်၊ စကားပြောသောအခါ အေးအေးပင် ပြောတတ်၏၊ သူတို့ သုံးပါးလုံး စိတ်ချမ်းသာနေပုံရသည်။

သို့သော် ယခုအထိ ဆရာတော်ကြီး အရှင်ဇနကာဘိဝံသနှင့် မတွေ့ရသေး၊ "တွေ့များတွေ့လျှင် ဘယ်လို ဆက်ဆံရမလဲ, ဘယ်လိုများ စတင်ပြောရမလဲ" ဟု သူတို့ ရင်ထဲမှာ တလှပ်လှပ်နှင့် ရှိကောင်းရှိနေပါလိမ့်မည်။

သို့နှင့် ညနေပိုင်းသို့ ရောက်သောအခါ ဆရာတော်ကြီး ကျမ်းစာရေးသားပြီးချိန်လောက်တွင် တာဝန်ခံ ဦးကုဏ္ဍလ နှစ်ပါးနှင့်အတူ ကိုးရီးယားဘုန်းတော်ကြီး ၃ ပါးတို့ ဆရာတော် အရှင်ဇနကာဘိဝံသထံ သွားကြသည်၊ ဆရာတော်က "မဟာယာနဘုန်းကြီးများ" ဆိုပြီး မလေးမစား မပြုပါ။

ဆရာတော်က သူ့ဝါဒအတိုင်း ဘုန်းကြီးဆိုလျှင် မည်သည့် ဘုန်းကြီးကိုပင် ဖြစ်ဖြစ် သံယောဇဉ်ထား၏၊ ရွှေကျင်သုဓမ္မာ, ဒွါရ စသည် မခွဲခြား။

ယခု "မဟာယာနဘုန်းကြီးများ" ဟူ၍လည်း မထီမဲ့မြင် မပြုပါ၊ လေးလေးစားစားပင် စိတ်ပါလက်ပါ မတ်မတ်ရပ်လျက် မိန့်ပါသည်။

## ဝမ်းသာလွန်းလို့ ရှိုက်၍ ရှိုက်၍ ငို

"ကဲ...အခုမှ ဒီကျောင်းတိုက်ကို ရောက်လာတွေ့ဆုံကြသော်လည်း အမှန်ကတော့ ရှေးတုန်းကပင် တွေ့ခဲ့ကြ, ဆုံခဲ့ကြပါလိမ့်မယ်၊ ဘုန်းကြီးတို့အားလုံးဟာ ရှေးတုန်းက (ဘဝများစွာက) အတူတူ နေခဲ့ကြဖူးလို့, ဘဝသံသရာက ညီအစ်ကိုတွေ ဖြစ်ခဲ့ကြဖူးလို့ အခုလို ပြန်တွေ့ကြရတာပဲ။

ပြီးတော့ အယူဝါဒ ကွဲပြားနေခဲ့ကြသော်လဲ မြတ်စွာဘုရားရဲ့ သားတော်ချည်းပါပဲ၊ ဒါကြောင့် ဧည့်သည် အာဂန္တုလို သဘောမထားပါနှင့်၊ ကိုယ့်နေမြဲကျောင်းတိုက်လို ရင်းရင်းနှီးနှီး သဘောထားပါ၊ လွတ်လွတ်လပ်လပ် နေကြပါ၊ လေ့လာလိုသမျှအားလုံးစုံအောင် လေ့လာကြပါ" ဟု ဆရာတော်က အမိန့်ရှိလိုက်သည်။

ယင်းအကြောင်းအရာကို (လေးမျက်နှာဇာတိ) ဦးကုဏ္ဍလက အင်္ဂလိပ်လို ဘာသာပြန်၍ ပြောလိုက်ရာ ထေရဝါဒသို့ ပြောင်းထားသော အလတ်ကိုယ်တော်က ဝမ်းသာလွန်းလို့ သူ့မဟာနာယကဆရာတော်ကြီးအား ရှိုက်၍ ရှိုက်၍ (ကိုးရီးယားလို) ပြန်ပြောသည်၊ မျက်ရည်များ အရွှဲသားဖြင့် (အသံများပါ တအီအီထွက်အောင်) ငို၍ ငို၍ ပြောရှာ၏၊ ထိုအခါ ကိုးရီးယား မဟာနာယကဆရာတော်ကြီးလည်း မျက်ရည်များ ဝိုင်း၍ လာတော့သည်။

ဟုတ်ပါသည်၊ ဟိုတုန်းက ညီအစ်ကိုတွေပါ၊ တစ်ဖတည်းသားများပင် ဖြစ်ပါသည်၊ တစ်စုံတစ်ခုသော အကြောင်းကြောင့် တစ်ဦးနဲ့တစ်ဦး မျက်နှာလွှဲ၍ ကျောခိုင်းလာခဲ့ကြသည်၊ တစ်စုံတစ်ခုသော အကြောင်းဆိုသည်မှာလည်း ဝါဒရေးရာပင် ဖြစ်ပါ၏။

တချို့က မဟာယာန, တချို့က ထေရဝါဒတဲ့၊ ဤသို့ ဝါဒရေးရာ မတူခဲ့ကြရာမှစ၍ ကျောချင်းခိုင်းခဲ့ကြသည်၊ ကြာပြီဖြစ်၏၊ သို့သော် "တစ်ချိန်သောအခါတွင်ကား ညီအစ်ကိုများချင်း သဘောဆန္ဒတူညီမှုရ၍ တစ်ပေါင်းတည်း ဖြစ်မလာနိုင်ဘူး" ဟူ၍ မည်သူ ပြောဆိုနိုင်ပါအံ့နည်း။

## အားရပါးရ လှေ့လာမှတ်တမ်းတင်

ကိုးရီးယားဘုန်းတော်ကြီးများသည် ဆရာတော်ကြီးထံမှ အပြန် အခွင့်ရ၍ ထိုနေ့ညကပင် စတင်ကာ ဦးကုဏ္ဍလ ၂ ပါး၏ အကူအညီဖြင့် သံဃာတော်များ ဘုရားဝတ်တက်ပုံ, ဘုရားဝတ်တက်အပြီး ကမ္မဋ္ဌာန်းထိုင်ပုံတို့ကို လေ့လာ၍ ဓာတ်ပုံရိုက်ယူကြ၏၊ နောက်တစ်နေ့ နံနက်ရောက်သောအခါ ၄ နာရီ တုံးကြီးခေါက်ပုံ, သံဃာများ အိပ်ရာက ထကြပုံ, ကိုယ်လက်သန့်ရှင်း၍ ကိုယ့်နေရာကိုယ် ဗုဒ္ဓါနုဿတိ စသော အာရုံများ, မေတ္တာများ ပွားများနေကြပုံနှင့် ပစ္စဝေက္ခဏာ ဆင်ခြင်နေကြပုံတို့ကို လေ့လာကြ၏၊ အရုဏ်တက်သောအခါ ဆွမ်းစားကျောင်းကြီးမှ သံချောင်းခေါက်သဖြင့် သံဃာများ စီတန်းကြွလာကြပုံ, သံဃာတော် ၅၅၀ ကျော်က ၂ နေရာမှ ၂ တန်းခွဲ၍ သပိတ်ကိုယ်စီဖြင့် ယာဂုအလှူခံနေကြပုံ, အလှူရှင်များက ယာဂုလောင်းလှူနေကြပုံနှင့် တစ်နေရာတည်း၌ တစ်စုတည်းသော သံဃာများ ယာဂုဘုဉ်းပေးနေကြပုံတို့ကို ဓာတ်ပုံရိုက်ယူကြသည်၊ ယာဂုဘုဉ်းပေးပြီး၍ ဩဝါဒခံယူဖို့ရန် ဆွမ်းစားကျောင်းကြီး အပေါ်ထပ်သို့ သံဃာများ သက်နှင်းလက်ကတော့တင်၍ လာနေကြပုံ အပေါ်ထပ်သို့ ရောက်သောအခါ ၅၅၀ ကျော်သော သံဃာများ တစ်စုတစ်ဝေးတည်း ထိုင်၍ ဩဝါဒနာယူနေကြပုံတို့ကိုလည်း အဘက်ဘက်မှ လှည့်၍ ဓာတ်ပုံရိုက်ယူကြသည်။

## မြင်ကွင်းကြောင့် ရင်တွင်းတလှပ်လှပ်

ဤမြင်ကွင်းသည် ရင်တွင်း၌ တလှပ်လှပ်ဖြစ်စေ၏၊ အသွေးတူ အမွေးတူ နီညိုရင့်ရောင် သင်္ကန်းများဖြင့် ညီညာစွာ အတန်းလိုက် ထိုင်နေကြသည်မှာ ငြိမ်သက် ရင့်ကျက်လှပါ၏၊ လေငြိမ်ရာ၌ ထွန်းထားသော မီးတောက်ကဲ့သို့ ဖြစ်တော့သည်။

ထို့ကြောင့်ပင် တစ်ချိန်က သီဟိုဠ်မင်းကြီး လာစဉ်က "ကျောက်ဆင်းတုကလေးများ စီတန်းထားသလား"ဟု ထင်မှတ်မှားရလောက်အောင် ဖြစ်တော့သည်။

ထို့ကြောင့် မြင်ရသူအပေါင်း၏စိတ်ကို လှုပ်ရှားစေ၏၊ သဒ္ဓါတရားကို ပွားစေ၏၊ ကြည်နူးမှု အပြည့်အဝကို ပေးသည်၊ ယခုလည်း ထိုအတိုင်းပင် တွေ့မြင်နိုင်ပါ၏၊ တစ်ခါတစ်ရံ ဖူးတွေ့ရသော ဒကာဒကာမများက ဆိုလျှင် ဘုရားရှင်လက်ထက်တော်က သံဃာတော်များကို ရော်ရမ်း မျှော်မှန်းပြီး မျက်ရည်များပင် ကျကြသည်၊ ဩဝါဒအပြီးတွင် သံဃာတော် ၅၀၀ ကျော်၏ တစ်ပြိုင်နက်တည်း, တစ်သံတည်းဖြင့်...

"အရှေ့အရပ်၌နေကြသော ကမ္ဘာသူ ကမ္ဘာသား သတ္တဝါအများတို့သည် ဘေးရန် ကင်းကွာ ကျန်းမာချမ်းသာကြပါစေ"

ဟူ၍ စည်းစည်းလုံးလုံး ပို့လိုက်သော မေတ္တာပို့သံကြီးကလည်း ကျောင်းတိုက်ကြီးတစ်ခုလုံး ဟိန်းထွက်သွားစေပါသည်၊ မေတ္တာအထုအထည်လည်း ကြီးမားလှ၏၊ ထိုမေတ္တာပို့သံကြီးကား ကြားရသူအပေါင်း၏ နှလုံးသားကို ဆွဲကိုင်လှုပ်ရမ်း၍ သွားနိုင်စွမ်းရှိပါသည်၊ အေးချမ်းသော ခံစားမှုကို အပြည့်အဝ ပေးသော မြင်ကွင်းကြီးတစ်ခုသာတည်း။

## ကျောင်းနှင့်တူသောကျောင်းများတဲ့

ဩဝါဒပြီးသောအခါ ကိုးရီးယားဘုန်းတော်ကြီးများသည် "မဟာဂန္ဓာရုံဆရာတော်ဘုရားကြီးနှင့် အနီးကပ် တွဲ၍ ဓာတ်ပုံရိုက်ပါရစေ"ဟု တောင်းပန်ကြသဖြင့် ဆရာတော်ကြီးက လိုက်လျောတော်မူ၏၊ ထို့နောက် ကျောင်းတိုက်တွင်းသို့ လှည့်ပတ်ကြည့်ရှုကြ, လေ့လာကြသည်၊ ၂၅ ဧကခန့်ရှိသော ကျောင်းဝင်းတစ်ခုလုံး အနှံ့ လေ့လာကြ၏၊ အရိပ်ကောင်းသော သစ်ပင်ကြီးတို့ဖြင့် အုပ်ဆိုင်းလျက်ရှိသော ကျောင်းတိုက် အနောက်တောင်ပိုင်းက ဉယျာဉ်တွင်းသို့ ရောက်သောအခါ "သာယာအေးချမ်းလွန်းလို့"ဟု ဆိုကာ သစ်ပင်များအောက်က သစ်သားထိုင်ခုံကလေးများပေါ်တွင် မဟာနာယကဆရာတော်ကြီးက ကမ္မဋ္ဌာန်းပင် ထိုင်လိုက်သေး၏။

လေ့လာကြပုံမှာလည်း မြေပြင် တစ်လျှောက်

လှည့်ပတ်ကြည့်ရှုရုံမျှမက ကျောင်းများပေါ်သို့ပါ တက်၍ ကြည့်ကြသည်၊ ကျောင်းတော်တော်ခပ်များများကို တက်၍ ကြည့်ပြီးသောအခါ သူတို့က ဤသို့ မှတ်ချက်ချ၍ ပြောကြပါ၏၊ "အရှင်ဘုရားတို့ ကျောင်းတွေက ကျောင်းနဲ့တူတယ်"တဲ့။

ဘာဆိုလိုပါသလဲလို့ သူတို့ ပြောလိုရင်းကို ရှင်းလင်းအောင် ပြန်၍ မေးသောအခါ "သူတို့နိုင်ငံမှာရှိတဲ့ ကျောင်းတွေကတဲ့၊ ကျောင်းပေါ် တက်ကြည့်ရင် ရေခဲသေတ္တာနဲ့ ဆိုဖာနဲ့ ပန်ကာနဲ့ စားပွဲနဲ့ ကုလားထိုင်နဲ့ မွေ့ရာခုတင်နဲ့ ကိုယ်လုံးပေါ်မှန်နဲ့ အသံဖမ်းစက်တွေနဲ့ စုံနေတာပဲ၊ ကာမဂုဏ်နယ်သားက လူတွေနဲ့ အတူတူပဲတဲ့'အရှင်ဘုရားတို့ ကျောင်းတွေကခဲ့ တက်ကြည့်တယ်၊ ဘာမှ မရှိဘူး၊ စာအုပ်တွေပဲ တွေ့ရတယ်"တဲ့၊ ထိုသို့ ကိုးရီးယားဘုန်းတော်ကြီးတွေ ပြောကာမှ သဘောပေါက်လာသော အချက်တစ်ခု တိုးလာရ သည်၊ ရှေးတုန်းက ကြားဖူး၏။

"တူကြီး လေးတူ တူလိမ့်မည်"ဆိုသည့် အတိတ်တဘောင်တွင် "ယောကျ်ား-မိန်းမ တူလိမ့်မည်၊ ကျောင်းနဲ့ အိမ်နဲ့ တူလိမ့်မည်"ဟူသော အချက်တစ်ခုပါခဲ့၏။

ယခင်တုန်းက ထင်ခဲ့သည်မှာ အဆောက်အအုံဆောက်သောအခါ "ကျောင်းပုံစံနှင့် အိမ်ပုံစံတူအောင် ဆောက်လာလိမ့်မည်"ဟု ထင်မှတ်ခဲ့၏၊ မဟုတ်ချေတကား၊ တက်တက်စင် လွဲခဲ့ချေပြီတကား၊ ယခုမှ အဖြေမှန်ပေါ်တော့သည်။

ကြက်သီးထဖွယ် ကြီးပါတကား။

## ပြန်ဖို့အရေးပင် တငင်ငင်ဖြစ်

ထိုနေ့က သံဃာများ နေ့ဆွမ်းစားသောအခါတွင်လည်း သေဒိယသိက္ခာပုဒ်များနှင့်အညီ တိတ်ဆိတ်ငြိမ်သက်စွာ စားကြပုံကို ကြည့်၍ ဓာတ်ပုံ တော်တော်များများ ရိုက်ယူသွားကြ၏၊ နေ့လယ်ပိုင်းသို့ ရောက်သောအခါ စစ်ကိုင်းဘက်သို့ သွား၍ လေ့လာကြ၏၊ ညနေ မိုးချုပ်မှ ပြန်လာကြသည်။

နောက်တစ်နေ့နံနက် ရောက်သောအခါ ဆွမ်းချက်ရာ မီးဖို ဆွမ်းဟင်းချက်ရာဌာန စသည်တို့ကို ဓာတ်ပုံရိုက်ပြီးမှ တောင်သမန်ဘက်သို့ ကူးကာ ကျောက်တော်ကြီးဘုရားကို ဖူးမြော်ကြသည်၊ ပြန်လာသောအခါ ကိုးရီးယားဘုန်းတော်ကြီးများနှင့် တစ်တိုက်လုံးသံဃာတော်များ ဆရာတော်ဘုရားကြီးပါ ပါအောင် မြင်ကွင်းကျယ်ဓာတ်ပုံ ရိုက်ယူပြန်သည်။

ထို့နောက် နေ့ဆွမ်းစားကြ၏၊ နေ့ဆွမ်းစားပြီးလျှင် ကိုးရီးယားဘုန်းတော်ကြီးတို့သည် သူတို့ အစီအစဉ်အရ ခရီးဆက်ကြရမည်ဖြစ်၍ ပြန်ကြဦးတော့မည်၊ သူတို့လည်း ဤကဲ့သို့ ၃ ရက်တာမျှပင် အပြည့်အ၀ မဟုတ်တတ်သော ကာလအတွင်းမှာ နေထိုင်ရေး စားသောက်ရေးမှ အစ ချမ်းချမ်းသာသာ အခွင့်ရသဖြင့် သံယောဇဉ် ဖြစ်နေကြ၏၊ ပြန်ရဖို့ပင် တငင်ငင် ဖြစ်နေပါလိမ့်မည်။

## ရင်ထဲ ဆို့နင့်နင့်ကြီးမို့ နှုတ်မဆက်ချင်ဘူး
## စကားလုံးတွေ ပြောမယ့်ကြ ဆို့ဆို့လာ

ဟုတ်ပါသည်၊ ထင်သည့်အတိုင်းပါပင်၊ ပြန်ခါနီးသောအခါ မဟာဂန္ဓာရုံဆရာတော်ကြီး အရှင်ဇနကာဘိဝံသထံသို့ လာကြ၍ ကိုးရီးယား မဟာနာယက (သာသနာပိုင်ဆရာတော်ကြီး)က မျက်နှာညှိုးငယ်စွာဖြင့် ပြောရှာပါတော့သည်။

"အခု ခရီးဆက်ကြရမှာမို့ ပြန်ရပါတော့မယ်၊ အမှန်တော့ ဒီကျောင်းတိုက်က မပြန်ချင်ပါဘူး၊ လုံး၀ မထွက်ချင်ပါဘူး၊ မလွှဲသာလို့သာ ပြန်ရမှာပါ၊ ပြန်တော့မယ်လို့ နှုတ်တောင်မဆက်ချင်ဘူး၊ ဒီစကားလုံးတွေ ပြောမယ့်ကြရင် ရင်ထဲ ဆို့ဆို့လာတယ်၊ ဆို့နင့်နင့်ကြီးမို့ နှုတ်မဆက်ချင်ဘူး။

ဒီမှာ နေရတာ အားလုံး ချမ်းသာတယ်၊ အားလုံးပြည့်စုံပါတယ်၊ ကျေးဇူးလည်း တင်ပါတယ်၊ တပည့်တော်မှာ ကံမကောင်း အကြောင်းမလှလို့ ဝိနည်းတော်ကို (ထေရဝါဒရဟန်းတော်များလို) အပြည့်အစုံ မလိုက်နာခဲ့ရဘူး၊ ကံခေတယ်။

နောင်ဘဝတွေမှာလဲ နိဗ္ဗာန်မရခင် ဆရာတော်နဲ့ အတူ ဗုဒ္ဓသာသနာတော်ကို ပြုနိုင်ရပါလို၏ဟု ဆုတောင်းပါတယ်"။

ဤသို့ ဝမ်းနည်း ကြေကွဲစွာ အသံ တုန်တုန်ခိုက်ခိုက်ကြီးဖြင့် ပြောဆိုလျှောက်ထားကာ ခွဲခွာသွားကြလေတော့သည်။

ကျန်နှစ်ပါးလည်း ခွဲခွာကြရမည်ဖြစ်၍ မျက်နှာမကောင်းရှာကြ၊ မျက်လုံးအိမ်များတွင် မျက်ရည်တွေ ဥကြလျက် သူတို့စကားလုံးတွေအတိုင်း ရင်တွင်းမှာ ဆို့နင့်နင့်ကြီးတွေ ဖြစ်နေကြပါလိမ့်မည်။

# ကိုယ်တွင်းကိုယ်ပသန့်ရှင်းမှ သမာဓိရလွယ်

## သမာဓိဖြစ်လွယ်ဖို့ အကြောင်းများ

"ဦးပဥ္စင်းတို့ ကိုရင်တို့ တရားလက်လွတ် မနေကြနဲ့, စွမ်းနိုင်သမျှ ကိုယ့်ခန္ဓာပေါ်ကို ဉာဏ်နှင့် စိုက်ကြည့်ကြရတယ်၊ အဲဒီဉာဏ် ဖြစ်ပေါ်လာဖို့ရာ ဦးစွာ ပထမ သမာဓိ ထူထောင်ကြရတယ်။

ဒီလို သမာဓိ ထူထောင်တဲ့နေရာမှာ ကိုယ်တွင်းကိုယ်ပ သန့်ရှင်းနေစေရမယ်၊ ကိုယ်တွင်းကိုယ်ပ သန့်ရှင်းမှ သမာဓိ ဖြစ်လွယ်, ဉာဏ်သန့်ရှင်းနိုင်တယ်လို့ ဝိသုဒ္ဓိမဂ်တစ်နေရာမှာ ဆိုထားတယ်။

ဥပမာ-ခြေသည်းလက်သည်းတွေ ရှည်နေမယ်၊ ဆံပင်ကြီးက ညှင်းသိုးသိုးနဲ့ ရှည်နေမယ်၊ ခန္ဓာကိုယ်က ရေမချိုးတော့ အနံ့အသက်တွေ တလှောင်းလှောင်း ဖြစ်နေမယ်ဆိုရင် ဒါဟာ ကိုယ်တွင်းမသန့်ရှင်းမှုပဲ၊ တစ်ခါ ဝတ်ထားတဲ့ သင်္ကန်းက မဖွတ်မလျှော်လို့ အနံ့အသက်တွေ ထွက်နေမယ်၊ ညစ်ထေးနေမယ်၊ စုတ်ပြတ်နေမယ်၊ ဟောင်းနွမ်းနေမယ်၊ ကိုယ်နေတဲ့ ကျောင်းကလည်း အမှိုက်တွေ ရှုပ်နေမယ်ဆိုရင် ဒါဟာ ကိုယ်ပ မသန့်ရှင်းမှုဘဲ။

အဲလို ကိုယ်တွင်း ကိုယ်ပ မသန့်ရှင်းဘူးဆိုရင် ဖြစ်ပေါ်လာတဲ့ စိတ်စေတသိက်တွေထဲက ဉာဏ်လဲ မသန့်ရှင်းဘူး ဖြစ်ကရောတဲ့၊ အညစ်အကြေးတွေနှင့် မသန့်မရှင်း ရောထွန်းလို့ ဖြစ်ပေါ်လာတဲ့ ဆီမီးရောင်လိုပဲတဲ့၊ မကြည်လင်ဘူးတဲ့၊ မကြည်လင်တဲ့ ဉာဏ်နှင့် သင်္ခါရတရားတွေကို သုံးသပ်တော့လဲ သင်္ခါရတရားတွေဟာ မထင်ရှားဘူးပေါ့၊ ဒီလိုနဲ့ ကိုယ်ကြိုးစားတဲ့ ကမ္မဋ္ဌာန်းဟာ ခရီးမတွင်ဘူး ဖြစ်တတ်သတဲ့။

## ကိုယ်တွင်းကိုယ်ပ သန့်ရှင်းမှ

"အဲ- ကိုယ်တွင်း ကိုယ်ပ သန့်ရှင်းပြီဆိုရင်တော့ ဖြစ်ပေါ်လာတဲ့ စိတ်စေတသိက်တွေထဲက ဉာဏ်လဲ သန့်ရှင်းမယ်တဲ့၊ ဆီကို သန့်သန့်စင်စင်ဖြစ်အောင် စစ်ပြီးမှ ထွန်းတဲ့ မီးရောင်လို ကြည်နေတတ်သတဲ့။

ဉာဏ်ကြည်လင်တယ်ဆိုရင် ကြည်တဲ့ဉာဏ်နဲ့ သင်္ခါရတရားတွေကို သုံးသပ်တဲ့အခါ သင်္ခါရတရားတွေလဲ ထင်ရှားတော့တာပေါ့၊ ကိုယ်အားထုတ်တဲ့ ကမ္မဋ္ဌာန်းဟာလဲ လိုရာခရီး ရောက်နိုင်တာပေါ့။

ဒါ့ကြောင့် ကိုယ်တွင်း ကိုယ်ပ သန့်ရှင်းပေးကြ, သင်္ကန်းက ဟောင်းနွမ်းနေပေမယ့် မနံမစော်အောင် ဖွတ်လျှော်ပြီး သုံးစွဲ, ခန္ဓာကိုယ် ရေချိုး, ခြေသည်းလက်သည်း ရှည်ရင် ညှပ်ပစ်၊ ကိုယ့်ပတ်ဝန်းကျင်တံမြက်လှည်း, သန့်ရှင်းနေကြပေ့စေ။

ဒါ့ကြောင့် ရှေးဆရာတော်ကြီးများက မိန့်ကြတာ, "ခန္ဓာကိုယ် ကျောင်း အိပ်ရာနေရာ သင်္ကန်း သပိတ် ပရိက္ခရာ စသည် စင်ကြယ်သန့်ရှင်းမှ သမာဓိရလွယ်တယ်"တဲ့။

ဒါ သမာဓိ ရလွယ်ဖို့, ဉာဏ် ကြည်လင်ဖို့ အကြောင်းရင်းတစ်ခုပဲ၊ ဒီထက်ပို၍ အရင်းကျကျကတော့ သီလ စင်ကြယ်နေဖို့ပဲ။

ဝိပဿနာပွားမည့် သူအတွက် သီလနဲ့ သမာဓိဟာ အခြေခံပဲ၊ သီလ မစင်ကြယ်ရင် သမာဓိ မဖြစ်နိုင်ဘူး၊ သမာဓိ မရရင် ဝိပဿနာဉာဏ်အစစ် မဖြစ်နိုင်ဘူး။









ကိုရီးယား
သာသနာပိုင်





နောင်
ဘဝတွေမှာလဲ
ဆရာတော်နဲ့
အတူ
ဗုဒ္ဓသာသနာ
တော်ကို
ပြုနိုင်ရပါလို၏
လို့
ဆုတောင်း
ပါတယ်။

















အမှန်ကတော့
ဗုဒ္ဓမြတ်စွာရဲ့ သားတော်ရှင်ပါပဲ၊
ဘဝသံသရာက
ညီအစ်ကိုတွေ ဖြစ်ခဲ့ကြဖူးလို့
အခုလို ပြန်တွေ့ကြတာပဲ။

## ဝိပဿနာအစစ်ဖြစ်ဖို့ အခြေခံတွေ

သီလစင်ကြယ်ပြီဆိုရင်တော့ နောင်တတစ်ဖန် ပူပန်ရတဲ့ စိတ်နှလုံး မသာမယာမှုဆိုတာ မဖြစ်တော့ဘူး၊ အဲဒါရဲ့ ပြောင်းပြန် (အဝိပ္ပဋိသာရ) စိတ်နှလုံး သာယာမှု, စိတ်ရွှင်လန်းမှုသာ ဖြစ်တော့တယ်။

စိတ်ရွှင်လန်းရင် နုသော နှစ်သက်ဝမ်းမြောက်မှု ပါမောဇ္ဇ ဖြစ်မယ်၊ ပါမောဇ္ဇဖြစ်ရင် တဖြည်းဖြည်း ရင့်လာမယ့် ပီတိဖြစ်မယ်၊ ပီတိဖြစ်ရင် ကိုယ်စိတ်နှစ်ပါးလုံး အေးငြိမ်းမှု ပဿဒ္ဓိ, လဟုတာ, မုဒုတာ, ကမ္မညတာတို့ ဖြစ်လာမယ်၊ အဲဒီ ပဿဒ္ဓိ စသည်က တစ်ဆင့်တက်လို့ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာမှုသုခ ဖြစ်လာမယ်၊ အဲဒီသုခဖြစ်လာမှ ကောင်းတဲ့အာရုံမှာ စိတ်တည်ကြည်မှု သမာဓိဖြစ်လာမယ်၊ အဲဒီ သမာဓိ ရမှသာ "ဝိပဿနာ"ဆိုတာ အစစ်ဖြစ်လာနိုင်မယ်။

ဒါကြောင့် သီလဟာ အရင်းအမြစ်ကျတယ်၊ အခြေခံ ဖြစ်တယ်၊ အခြေခံသီလ ဖြူစင်မှ အဆင့်ဆင့် တင်သွားနိုင်တာပဲ၊ အဲဒါကြောင့်မို့လဲ "အခြေခံသီလဟာ အရေးကြီးတယ်, အရေးကြီးတယ်"နဲ့ ခဏခဏ သတိပေး နေရတာပဲ။

**ယောတာ ဝိပ္ပဋိသာရာယ,**
**သီလံ ပါမောဇ္ဇဟေတု သော၊**
**တံ ပီတိဟေတု သာ စာယံ,**
**ပဿဒ္ဓါဒိ ပသိဒ္ဓိယာ ...** တဲ့။

## သူ့ရဲ့ဆိုလိုရင်း အဓိပ္ပာယ်က

သီလံ-သီလသည်၊ အဝိပ္ပဋိသာရာယ-နှလုံးမသာမယာမဖြစ်ခြင်းငှာ(နှလုံးသာရွှင်ခြင်းငှာ)၊ ဟောတိ-ဖြစ်၏၊ သော(အဝိပ္ပဋိသာရော)-ထိုနှလုံးမသာမယာမဖြစ်ခြင်းသည်၊ ပါမောဇ္ဇဟေတု-နုသောဝမ်းမြောက်ခြင်း၏ အကြောင်းသည်၊ ဟောတိ-ဖြစ်၏။

တံ (ပါမောဇ္ဇံ)-ထိုနုသော ဝမ်းမြောက်ခြင်းသည်၊ ပီတိဟေတု-အားကြီးသော ဝမ်းမြောက်မှု ပီတိဖြစ်ဖို့ အကြောင်းသည်၊ ဟောတိ-ဖြစ်၏၊ သာ စ အယံ (ပီတိ)-ထိုသို့ သဘောရှိသော ဤပီတိသည်လည်း။ ပဿဒ္ဓါဒိ ပသိဒ္ဓိယာ-ပဿဒ္ဓိ အစရှိသည်တို့၏ ပြီးစီးခြင်းငှာ၊ ဟောတိ-ဖြစ်၏။

အဲသလို ပဿဒ္ဓိ ဖြစ်လာပြီဆိုရင်တော့ ရှေ့မှာ သုခဖြစ်မယ်၊ ပြီးတော့ သမာဓိဖြစ်မယ်၊ အဲဒီနောက် "ဝိပဿနာအစစ်"ဖြစ်မယ်၊ ဒါကြောင့် သီလဟာ အခြေခံအကျဆုံးပဲလို့ ဆိုတာသိပြီးတော့ သီလက စပြီး ဖြည့်ကျင့်ပါ၊ ကောင်းကောင်း နေပါ။

## သီလသည် အတ္တဟိတ–ပရဟိတနှစ်မျိုးရ

တချို့က ပြောတတ်ကြတယ်၊ "သီလကျင့်သုံးတယ်"ဆိုတာ ကိုယ်ကျိုးအတွက် အတ္တဟိတအလုပ်ပါတဲ့၊ ဒီစကားဟာ မှန်သလိုလိုနှင့် မမှန်တဲ့စကားပဲ၊ သီလစောင့်စည်းတဲ့အတွက် ကိုယ့်ဖို့ ကိုယ်ကျိုးရတာ မှန်ပါတယ်၊ ကိုယ့်ဖို့တွင် မကဘူး, သူများအတွက်လည်း အကျိုးတွေ အများကြီး ရသေးတာပဲ။

ဥပမာ-"ပါဏာတိပါတ"ဆိုပါတော့ "သူများအသက်ကို သတ်ဖြတ်ခြင်းမှ ရှောင်ကြဉ်တယ်" ဆိုရင် အသတ်ခံရမယ့် သတ္တဝါတွေလဲ အသက်ချမ်းသာရာရပြီးတော့ ပရဟိတအတွက်ပါ ဖြစ်သွားတော့တာပေါ့၊ သံယုတ်ပါဠိတော် ဝေဠုဒွါရေယျသုတ္တန်မှာ မြတ်စွာဘုရားက ဟောထားတယ်။

"သတ္တဝါတိုင်းဟာ အသက်ရှည်ချင်ကြတယ်၊ ချမ်းသာချင်ကြတယ်၊ အသက်ရှည်ချင်တဲ့, ချမ်းချမ်းသာသာ ဖြစ်ချင်တဲ့ မိမိကို သူများက လာပြီး နှိပ်စက်ရင် ဘယ်ခံချင်လိမ့်မလဲ, မခံချင်ဘူး၊ ကိုယ်မခံချင်သလို သူများလဲ ခံချင်မှာ မဟုတ်ဘူး၊ အသက်ရှည်ချင်တဲ့ မိမိကို လာပြီး သတ်ဖြတ်ရင်

ဆတ်ဆတ်ခါ နာတယ်၊ မလိုလားဘူး၊ သူများလဲ ဒီလိုနေမှာပဲလို့ ကိုယ်ချင်းစာပြီး ပါဏာတိပါတကို ရှောင်လိုက်တယ်၊ ရှောင်ရင် ဆိုင်ရာပုဂ္ဂိုလ်တွေလဲ အသက်ရှည်ခြင်း ချမ်းသာခြင်းဆိုတဲ့ အကျိုးတွေ ရတော့တာပေါ့၊ အဒိန္နာဒါန, ကာမေသု မိစ္ဆာစာရ စသည်တို့လဲ အတူတူပဲပေါ့၊ ဒါ့ကြောင့် အတ္တ ပရ နှစ်မျိုးရတဲ့ သီလကို ဖြည့်ကျင့်ကြလို့ တိုက်တွန်းနေရတာ"။

## သံဝေဂဉာဏ်တွေ ဖြစ်ဖို့အရေး

ဤသို့လျှင် အခြေခံသီလ လုံခြုံဖို့ရာ တိုက်တွန်းပြီးတဲ့နောက် ဆရာတော်က ဆက်လက်၍ မိန့်နေပြန်သည်၊ "အခုလို သီလနဲ့ သမာဓိကို အခြေခံရုံသာမက လောကကြီး၌ ငြီးငွေ့တတ်တဲ့ သံဝေဂဉာဏ် ထက်သန်လာအောင်လဲ ကြိုးစားရဦးမယ်"

(၁)အမိဝမ်း၌ ဆယ်လညောင်းမျှ အောင်းခဲ့ရပုံတွေ၊
(၂)လူ့ပြည်လူ့ရွာ၌ အိုရပုံ၊
(၃) နာရပုံ၊ (၄) သေရပုံတွေ၊
(၅)သေပြီးတဲ့နောက် အများစုက အပါယ်လေးပါးသို့ လားကြရပုံတွေ၊
(၆)အတိတ်ဘဝများစွာတုန်းကလဲ အခုလို ဝဋ်ဒုက္ခ ဘေးတွေနဲ့ ကြုံခဲ့ကြရပုံတွေ၊
(၇)အနာဂတ်ဘဝ များစွာမှာလဲ (နိဗ္ဗာန် မရမချင်း) အခုလို ဝဋ်ဒုက္ခဘေးတွေနဲ့ စိတ်မအေးစွာ ကြုံကြရဦးမှာ ဖြစ်ပုံ၊
(၈)ယခုဘဝ ဖြစ်ဆဲမှာလဲ (စား ဝတ် နေမှုအတွက်) အာဟာရပရိယေသနကြောင့် ဒုက္ခတွေ များရပုံ အလုံးစုံကို ခြုံငုံပြီး အထပ်ထပ် မြင်အောင်ကြည့်ပြီးတော့ လောကကြီး၌ ငြီးငွေ့တတ်တဲ့ သံဝေဂ ဉာဏ်ကိုလဲ ဖြစ်စေရပါဦးမယ်။

**[ဆောင်] အမိဝမ်းခေါင်း, ဆယ်လညောင်းမျှ, အောင်းခဲ့ရပေ, တည်သနေ့နှင့်, လူ့ပြေလူ့ရွာ, ရောက်ပြန်ပါလည်း, အိုနာသေရေး, ဒုက္ခဘေး ကြောင့်, စိတ်အေးကိုယ်ခိုင်, မနေနိုင်ခဲ့၊ ဆိုင်ဆိုင် ဒုက္ခ, ခံပြီးမှလည်း, များလှပါယ်ရွာ, ရောက်ကြ ရှာ၏၊ အတိတ်ကာရှေး, ဤဝဋ်ဘေးနှင့်, နောင်ရေး နာဂတ်, ဒုက္ခထပ်လိမ့်၊ မပြတ်ခုခါ, ဖြစ်တုံးမှာ လည်း, အစာရှာရ, ထိုဒုက္ခကြောင့်, နေ့ညမဟူ, ကိုယ်စိတ်ပူ၍, သူသူငါငါ, မသက်သာသည်, ရှစ်ဖြာ သံဝေရကြောင်းတည်း။**

ဤသို့လျှင် ယခုတစ်လော၌ ဆရာတော်ကြီးက လောကကြီးမှာ ငြီးငွေ့စရာ ဖြစ်ပုံတွေ, အနိစ္စ ဒုက္ခ အနတ္တ ဖြစ်ပုံတွေ ခဏ ခဏ ပြောနေတတ်တော့သည်။

# ဘုရားကို အသည်းကြားတွင် စိမ်၍ ကြည်ညိုသူ

## သည်းလှိုက် အူလှိုက် ကြည်ညို

ဆရာတော်၏ဘဝတွင် အလေးအမြတ်အပြုဆုံး တန်ဖိုးအထားဆုံးအရာကို ညွှန်ပြပါဆိုလျှင် "သုံးလောကထွတ်ထား, မြတ်ဘုရား"ကို ညွှန်ပြရလိမ့်မည်၊ ဆရာတော်က ဘုရားကို အလေးစားဆုံးဖြစ်၏၊ အမြတ်နိုးဆုံး ဖြစ်၏၊ အကြည်ညိုဆုံး ဖြစ်သည်။

ထို့ကြောင့် ဘုရားအကြောင်းကို ပြောရလျှင် မောသည်ဟု မထင်, သူတစ်ပါးက အပြစ်တင်လျှင်လည်း ဘုရားဘက်က သူမခံနိုင်၊ ဘုရားကို ထိလျှင် သူမချည့်အောင် နာတတ်သည်၊ ထို့ကြောင့် တစ်ဘဝလုံး ဘုရားကို ဖက်တွယ်၍ ဘုရားသာသနာ အတွက်သာ ဆောင်ရွက်နေခြင်း ဖြစ်လေသည်။

တစ်ခါ တစ်ခါ ဘုရားနှင့် စပ်၍ ဆရာတော်က ပြောတတ်၏။

"ဘုန်းကြီးက ဘုရားကို ကြည်ညိုတယ်ဆိုတာ ဘုရားဖြစ်မှ မဟုတ်ဘူး၊ ဘုရားမဖြစ်ခင် ဘုရားလောင်းဘဝတွေတုန်းကပင် ကြည်ညိုတာ။

ခေါင်းဆောင်ဖြစ်မယ့်ပုဂ္ဂိုလ်, သတ္တဝါတွေကို ကယ်မယ့် ပုဂ္ဂိုလ်ဆိုတော့ သူ့စိတ်ထားတွေဟာ ဘုရားလောင်းဘဝတည်းက မြင့်မြတ်တယ်၊ ခံ့ညား တည်ငြိမ်တယ်၊ တရားမျှတတယ်၊ သတ္တိရှိတယ်၊ အမြော်အမြင် ကြီးမားတယ်။

ဒါတွေကိုပါ ဘုန်းကြီးက သိမ်းကျုံး အာရုံပြုပြီး ကြည်ညိုတာ... သိပ်ပြီး သည်းလှိုက် အူလှိုက် ကြည်ညိုတာ။"...

## ဇာတ်တော်များက ပေးသောအရသာ

ဆရာတော်သည် (**တေ, ဇ, သု, နေ, မ, ဘူ, စံ, နာ, ဝိ, ဝေ**)ဟူသော ဇာတ်တော်ကြီးများ အပါအဝင် ငါးရာငါးဆယ်ဇာတ်တော်များကိုလည်း ချန်လှပ်၍ မထားပါ။ အခွင့်သင့်သလို ကြည့်ရှုလေ့လာတတ်ပါ၏၊ "သုတ္တန် တရားတော်ကြီးများက စိတ်ဓာတ် မြင့်မားမှုကို ဖန်တီးပေးသည်"ဟု မိန့်တတ်သည်၊ ဇာတ်တော်များကို လေ့လာသောအခါ ဇာတ်လမ်းများ၌ စိတ်ကို နှစ်ထားပြီး ခံစားချက်နှင့်တကွ လေ့လာဟန် တူပါသည်၊ ဇနကဇာတ်တော်ကို လေ့လာလျှင် လုံ့လဝီရိယ ကြီးမားပုံကို အားကျရ၏၊ မဟောသဓောဇာတ်တော်ကို လေ့လာလျှင် ပညာဉာဏ် ကြီးပုံတို့ကို အားရပါးရ ကြည်ညိုရ၏၊ တေမိဇာတ်ကို လေ့လာလျှင် တောထွက်ချင်လာ၏၊ သုဝဏ္ဏသာမဇာတ်ကား မိဘတို့အပေါ် သားသမီးတို့က အပြည့်အဝ ပြုစုပုံကို တဝကြီး ကြည်ညိုရသည်။

## ပြောရင်း ပြောရင်း ဆို့၍လာ

ဝေဿန္တရာဇာတ်တော်၌ ဝေဿန္တရာမင်းကြီး, မဒ္ဒီမိဖုရား, ကဏှာ, ဇာလီတို့ မိသားစု တောထဲ၌ သစ်သီးစား၍ ငြိမ်းချမ်းစွာ နေကြပုံ, ထို့နောက် သဗ္ဗညုတဉာဏ်တော်ကြီး တစ်ခုတည်းအတွက် မငဲ့မကွက် သား သမီးတို့ကို လှူဒါန်းပစ်လိုက်ပုံတို့မှာလည်း သား သမီး မရှိဖူးသော ဘုန်းတော်ကြီးများပင် အသည်းနစ်အောင် ရင်ထဲလှုပ်ခါသွားစေသည်။

ဘူရိဒတ္တနဂါးမင်းဇာတ်ကား ကြေကွဲဖွယ် ရင်နင့်ဖွယ်အပြည့် ဖြစ်၏၊ ခန္တိဝါဒီဇာတ်တော်၌ ဘုရားလောင်းကလေး လူမမယ်ကလေးသူငယ်ကိုကလာဗုမင်းက ခြေချောင်း လက်ချောင်းကလေးတို့ကို ဓားဖြင့် တောက်တောက်စင်း၍ ဖြတ်ခန်းတွင် ရင်ထဲနှလုံးထဲ၌ နာကျည်းခံခက် ဖြစ်ရကာ မျက်ရည်စို့ရသည်၊ အောင့်အည်း သည်းခံနေရှာသော ဘုရားအလောင်းတော်ကလေးကိုလည်း...

"အို-အလောင်းတော်ကလေးဘုရား... သဗ္ဗညုတဉာဏ်တော်ကြီး ရဖို့အတွက် ဤမျှ အနှိပ်စက်ဒဏ်ကို ခံယူနေပါသလားဘုရား" ဟူ၍ လျှောက်ထားချင်လာလောက်အောင် ဆို့နင့်စွာ မခံချင်မှုများ ဖြစ်ရပါသည်။

ဤအကြောင်းအရာတို့ကို ဆရာတော်က ပြန်လည် ပြောသောအခါ သူ့မှာလည်း ရင်ထဲ၌ ဆို့၍ ဆို့၍ လာလေသလော မပြောတတ်ပါ, အသံတွေ နစ်၍ နစ်၍ တိမ်ဝင်သွားတတ်ပါသည်။

## ရင်ထဲက ခံစားချက်နှင့်အတူ မိန့်မြွက်

တစ်ခါတုန်းက သံဃာများ ဆွမ်းကပ်ပွဲအတွက် နံနက်ခင်း ဩဝါဒပေးရင်း ဆွမ်းအနုမောဒနာပြုရာတွင် ဘုရားအကြောင်းအရာတို့ကို ပြောပြတော်မူ၏၊ ဘုရားဖြစ်ဖို့အရေး ပါရမီများ ဖြည့်ရာတွင် လွယ်လွယ်နှင့် မရပုံ၊ မြောက်မြားစွာ အနစ်နာခံရပုံတို့ကို အသည်းလှိုက် အူလှိုက် ပြောပြရင်း ဆရာတော့် အသံတွေ တုန်လာသည်။

ဘုရားကို ကြည်ညိုသော ဂါထာတစ်ပုဒ် ရွတ်ဆိုရာတွင်ပင် ဆုံးအောင် မရွတ်နိုင်တော့ပေ၊ ရွတ်သမျှတွင်လည်း ငိုသံကြီး ပါမသွားအောင် အတော် ထိန်းထားရဟန် တူ၏။

ပဋ္ဌာန်းတရားတော်ကြီးကို ဟောစဉ်တုန်းကလည်း ထို့အတူပင် ဖြစ်၏၊ အဦးဆုံးစ၍ ဟောသောနေ့တွင် ဘုရားအကြောင်းအရာတို့ကို ပြောရင်း ပြောရင်း ဂါထာတစ်ပုဒ် ရွတ်ဆိုရာ ဝမ်းနည်းလွန်း၍ ဆုံးအောင် မရွတ်နိုင်ဘဲ ရပ်ထားလိုက်ရတော့သည်။

## ရင်ထဲ ခံစားချက်ချင်း တူကြ၍

မွေးရပ်ဌာနေ သရိုင်မြေသို့ ဒုတိယအခေါက် ကြွစဉ်တုန်းကလည်း အလားတူပင် ဖြစ်ခဲ့ဖူး၏၊ ဆရာတော်က ရင်ထဲ နှလုံးထဲမှ တကယ့်စေတနာ အပြည့်ဖြင့် တကယ် ဟောပြနေသည်။

သရိုင်ရွာ၏ ရှေးဟောင်းနှောင်းဖြစ်ကလေးများ, ရှေးခေတ်က ရွာဦးကျောင်း ဆရာတော်ကြီးတို့၏ အခြေအနေ, ရှေးက ဘိုးဘွား မိဘများ, ထို့နောက် ခေတ်အဆက်ဆက် ပြောင်းလာကြပုံ, ယခုပစ္စက္ခ အခြေအနေတို့ကိုပါ ပေါင်းစပ်၍ လွမ်းစရာကြီး ပြောပြနေ၏၊ ဆရာတော်လည်း တစ်ချက် တစ်ချက် အသံတွေ တိမ်၍ တိမ်၍ ဝင်သွားသည်။

တရားပွဲပြီးသောအခါ ပရိသတ်ထဲမှ ဆရာတော်နှင့် ရွယ်တူလောက် ဒါယကာကြီး တစ်ယောက်မှာလည်း ထ၍ မရအောင် ဖြစ်နေတော့၏၊ တသိမ့်သိမ့်နှင့် ရှိုက်၍ ရှိုက်၍ ငိုနေသည်၊ တွဲ၍ ထူကြရတော့၏။

ရင်ထဲ နှလုံးထဲမှာ ခံစားချက်ချင်း တူသွား၍ ဖြစ်မည်။

## အကြောင်းကြောင့် အကျိုးဖြစ်ပုံပြ

ဇာတ်အဋ္ဌကထာများ၌လည်းကောင်း, ဓမ္မပဒ အဋ္ဌကထာများ၌လည်းကောင်း ဇာတ်တော်များကို လေ့လာသောအခါ အတိတ်ဝတ္ထု, ပစ္စုပ္ပန်ဝတ္ထုဟူ၍ ၂ မျိုး ၂ မျိုး ပါတတ်သည်ကို တွေ့ရ၏။

ယခု ပစ္စုပ္ပန် ဖြစ်ပျက်ရခြင်းသည် ရှေးအတိတ်က သူပြုလုပ်ခဲ့သော ကံအားလျော်စွာ ဖြစ်ရကြောင်းကို နှစ်ဖက်မြင်အောင် ဖော်ပြခြင်း ဖြစ်သည်။

ထိုအခါ အကြောင်းကြောင့်သာ အကျိုးဖြစ်ရပုံကို ဉာဏ်တွင် ထင်လာရတော့၏၊ ပဋိစ္စသမုပ္ပာဒ်သဘောတရားများ ရင့်ကျက်လာစေနိုင်တော့သည်။

## အတုံ့အလှည့် အဖုအထစ်များ

ထို့ပြင် ဇာတ်တော်များအရ ဘဝသံသရာထဲ၌ အကောင်း အဆိုး, အနိမ့် အမြင့်, အတုံ့ အလှည့်, အပြိုင်အဆိုင် အဖုအထစ်ကလေးတို့ကိုလည်း တွေ့ရတတ်သည်။

ယင်းကိစ္စကလေးတို့သည် ဘဝလမ်းကြောင်းတွင် အဟန့်အတား ဖြစ်ကြ၏၊ ပါရမီဖြည့်ရာတွင် အနှောင့်အယှက်သဖွယ်လည်း ဖြစ်လာသည်။

ဆရာတော်က သံသရာခရီးကို အရှည်ကြီး ကြည့်ထားသည်၊ တစ်ဘဝတည်း မကြည့်၊ ထို့ကြောင့် ဘဝသံသရာခရီးတွင် ပါရမီ ဖြည့်ရာ၌ အနှောင့်အယှက် ဖြစ်မှာ စိုးဟန်တူသည်။

ထို့ကြောင့် တစ်ခါတလေ ဩဝါဒပေးရာတွင်လည်းကောင်း, တစ်ခါတလေ စာချရာတွင်လည်းကောင်း အမိန့်ရှိတတ်၏။

"ဘုန်းကြီးက မင်းတို့ တစ်တွေကို သိပ်တတ်စေချင်, သိပ်သိစေချင်, သိပ်ပြီး အဆင့်အတန်း မီစေချင်လွန်းတော့ တစ်ခါတလေ ဆူရပူရ, တစ်ခါတလေ မန်ရ မဲရနဲ့ လုပ်နေရတယ်၊ တစ်ခါတလေတော့လဲ ဘုန်းကြီးက အောက်မေ့မိတယ်။

ဘဝသံသရာထဲမှာ အဖုအထစ် အထုံးအဖွဲ့လို ဖြစ်ပြီး ရန်ညှိုးများ ဖွဲ့နေကြမလားလို့, ဒါတွေကို မင်းတို့ သဘောပေါက်ကြ"

ဤသို့ပင်လျှင် တောင်းပန်သလိုကြီး ပြောပြနေတတ်၏။

တစ်ခါတုန်းကမူကား ကိုယ်တော်တစ်ပါးအား သင်းပိုင်ကလေးနဲ့ပင် တောင်းပန်သည်ကို တွေ့ရဖူး၏။

## သင်းပိုင်ကလေးနဲ့ တောင်းပန်ရှာ

ဆရာတော့် ဝါသနာမှာ စိတ်ထဲ မတွေ့လျှင် တပည့်တို့ အပေါ်၌ ရှူးရှူးရှားရှား လုပ်တတ်၏၊ စိတ်ဆိုးတတ်၏၊ သို့သော် မည်သူ့အားမျှ ကိုယ်ထိ လက်ရောက် ထုနှက်ရိုက်ပစ်သည် ဟူ၍ကား မတွေ့ရဖူးချေ။

တစ်ခါတွင်ကား ရှားရှားပါးပါး စိတ်ကို မထိန်းနိုင်၍ ဖြစ်ဟန်တူ၏၊ ဦးပဉ္ဇင်းတစ်ပါး အဆင်မပြေလှသည်ကို တွေ့သဖြင့် ခြေဖြင့် တစ်ချက်ကန်လိုက်လေသည်။

ပြီးမှသတိရ၍ ရုတ်ခြည်းပင် သူ့ကျောင်းကလေးဆီသို့ ခပ်သုတ်သုတ် ပြန်သွားကာ သင်းပိုင်ကလေး တစ်ထည်ကို ယူလာ၏၊ ထိုအကန်ခံရသော ဦးပဉ္ဇင်း အနားသို့ ကိုယ်တိုင်သွားကာ...

"ဦးပဉ္ဇင်း...ခုနတုန်းက ဘုန်းကြီးက စိတ်ကို မထိန်းနိုင်လို့ ဦးပဉ္ဇင်းကို ကန်လိုက်မိတယ်၊ အဲဒါ ကျေပါ၊ အစွဲအလမ်း မထားပါနဲ့၊ ဒီ သင်းပိုင်ကလေးကိုလဲ အလှူခံပါ" ဟု ပြောရှာသည်။

ထိုဦးပဉ္ဇင်းကား ပြုံး၍ နေသည်၊ ကန်လိုက်သည်မှာလည်း မနာကျင်လှပါ၊ သို့ဖြစ်၍ "အမှတ်လည်း မထားပါ"ဟူသော သဘောဖြင့် ပြုံးနေခြင်း ဖြစ်၏၊ သို့သော် ဆရာတော်ကမူ ထပ်မံ၍ တောင်းပန်နေပြန်သည်။

"ဘဝသံသရာမှာ အခဲမကျေ"ဟူသော သဘောမျိုး ဖြစ်ပြီး ကျန်ရစ်မည်ကို စိုးတော်မူဟန် တူ၏၊ ထိုဦးပဉ္ဇင်းက "ကျေပါသည်ဘုရား၊ အမှတ်မထားပါ"ဟု ဆိုမှ သင်းပိုင်ကလေးကို လှူခဲ့၍ ကျေနပ်စွာ ပြန်သွားသည်။

ဤသို့သော ဆရာတော်ပါပေ၊ ဘဝသံသရာတွင် အဖုအထစ် အထုံးအဖွဲ့ မရှိရန် ရှင်းလင်းခြင်း ဖြစ်၏၊ ဤသို့ ပြုလိုက်ရမှ စိတ်ချမ်းသာပုံရသည်။

## အနိစ္စ ဒုက္ခ အနတ္တ

### လက္ခဏာရေးသုံးပါးဆိုတာ

"ဒီခန္ဓာကိုယ်ကြီးဟာ အဖြစ်အပျက်ဒဏ် အမြဲခံနေရတာဆိုတော့ အချိန်မရွေး ပျက်စီးနိုင်တယ်၊ ဒါကို မေ့ထားလို့ မရဘူး၊ ကိုယ်ဖြစ်ချင်တိုင်းလဲ မဖြစ်ဘူး၊ ကိုယ့်အလို မလိုက်လာဘူး၊ ဒါ့ကြောင့် "အနတ္တ"လို့ ဆိုတာပဲ။

* **ဟုတွာ အဘာဝတော.နိစ္စာ၊**
**ဥဒယဗ္ဗယပီဠနာ၊**
**ဒုက္ခာ အဝသဝတ္တိတ္တာ၊**
**အနတ္တာတိ တိလက္ခဏံ။**

ဟုတွာ - ဖြစ်ပြီး၍၊ အဘာဝတော - မရှိခြင်းကြောင့်၊ အနိစ္စာ-မမြဲကုန်တကား၊ ဥဒယဗ္ဗယပီဠနာ-အဖြစ် အပျက်တို့၏ နှိပ်စက်ခြင်းကြောင့်၊ ဝါ-အဖြစ်အပျက်ဒဏ်ကို ခံနေရခြင်းကြောင့်၊ ဒုက္ခာ-ဒုက္ခတို့ပါတကား၊ အဝသဝတ္တိတ္တာ-အလို၌ မဖြစ်ကုန်သည်၏ အဖြစ်ကြောင့်၊ အနတ္တာ - အတ္တ မဟုတ်ကုန်တကား၊ ဝါ-အတ္တ မရှိကုန်တကား။

ဒီခန္ဓာကိုယ်မှာ ရုပ်တရား နာမ်တရားတို့ဟာ ဖြစ်ပြီးရင် ချက်ချင်း ပျက်ကုန်တာပဲ၊ ဒါဟာ မမြဲတဲ့ ရုပ်နာမ်တို့ရဲ့ လက္ခဏာပဲ၊ အမှတ်အသားပဲ။

အကြောင်း ရှိသမျှ ဆက်၍ ဆက်၍ ဖြစ်နေကြလို့သာ အကုန်လုံး ကွယ်ပျောက် မကုန်တာပဲ။"

ယခုတလော ဆရာတော်က ဤသဘောမျိုး၊ ဤဩဝါဒမျိုးတွေချည်း အပြောများနေသည်၊ စောစောပိုင်းက သီလလုံခြုံဖို့၊ စိတ်ကောင်းထားဖို့တွေကို ပြောခဲ့ရာမှ ယခု မမြဲတဲ့ သဘောတွေကို အပြောများနေသည်။

* စုဒ္ဒသိက္ခာ-မူလသိက္ခာ – ၅၆၊ မဇ္ဈိမပဏ္ဏာသီ – ၁၆၅၊

## ဒုက္ခအမျိုးအစား ၃ ပါးရှိတယ်

"ရုပ်တရား နာမ်တရားတို့ရဲ့ အဖြစ်အပျက် အနှိပ်စက်ဒဏ်ကို ခံနေရခြင်းဟာ ဒုက္ခရဲ့ အမှတ်အသားလက္ခဏာပဲ၊ လောကကြီးမှာ "ဖြစ်"နေရခြင်းဟူသမျှ "မဖြစ်ဘဲ" ငြိမ်နေရသလောက် ဘယ်ကောင်းလိမ့် မလဲ၊ ဖြစ်လို့ ဖြစ်ပြန်လဲ မပျက်ဘဲနေရင် အတော်သား၊ ခုတော့ ဖြစ်ပြီးရင် ချက်ချင်း ပျက်သွားတယ် ဆိုတော့ ဒဏ်နာတာပေါ့၊ ဒါ ဒုက္ခတွေ။

ဒုက္ခဒုက္ခ၊ ဝိပရိဏာမဒုက္ခ၊ သင်္ခါရဒုက္ခလို့ ၃ မျိုးရှိတယ်၊ မခံသာအောင် နာကျင်ကိုက်ခဲမှု ဒုက္ခဝေဒနာကို "ဒုက္ခဒုက္ခ" (ဒုက္ခအစစ်)လို့ ခေါ်တယ်၊ တစ်ခါတလေ သုခဝေဒနာ၊ တစ်ခါတလေ ဒုက္ခဝေဒနာ၊ တစ်ခါတလေ ဥပေက္ခာဝေဒနာ၊ အပြောင်းအလဲ ဖြစ်ခြင်း ပျက်ခြင်းကို "ဝိပရိဏာမဒုက္ခ"လို့ ခေါ်တယ်၊ ရုပ်နာမ်တိုင်းမှာ အဖြစ် အပျက် ရှိနေခြင်း၊ အဖြစ် အပျက် အနှိပ်စက် ခံရခြင်းကိုတော့ "သင်္ခါရဒုက္ခ"လို့ ခေါ်တယ်။"

ဆရာတော်ကား လေးလေးနက်နက် ဩဝါဒပေးနေခြင်း ဖြစ်၏၊ သို့သော် ပရိသတ်ကား ငယ်ရွယ်သူများပါ အစုံပါသဖြင့် အကုန်သဘောမပေါက်နိုင်ပါ၊ ဆရာတော်သာလျှင် သဘောပေါက်၍ မိန့်မြွက်နေခြင်း ဖြစ်ပါ၏။

ဆက်လက် မိန့်နေပြန်ပါသည်။

## အသက် ဇီဝ အတ္တ လိပ်ပြာ မရှိ

ရုပ်တရား နာမ်တရားတို့ရဲ့ အလိုသို့ မလိုက်ခြင်း အကြိုက်သို့ မပါခြင်းဟာ အနတ္တဖြစ်တယ်ဆိုတဲ့ အမှတ်အသားလက္ခဏာပဲ၊ ဒါကို ကွဲကွဲပြားပြား မသိနိုင်တဲ့ သူတွေကျတော့ "ခန္ဓာကိုယ်တွင်းမှာ အတ္တကောင် ဇီဝကောင် အသက်ကောင် လိပ်ပြာကောင် ရှိတယ်"လို့ ယူဆကုန်ကြရော၊ ဒါဟာ အသိဉာဏ်အမြင် မစင်ကြယ်တော့ ဒီလိုပဲ ဖြစ်ရတာပေါ့၊ ကွက်ကွက်ကွင်းကွင်း ဉာဏ်ရောင်မလင်းရင် ဒီလိုပဲပေါ့၊ ဆိုကြစမ်းပါ၊ "ရုပ်နာမ်နှစ်ဝ၊ ဤကာယ၏"

သံဃာတော်များ သံပြိုင်ဆို-

**၁။ ရုပ်နာမ်နှစ်ဝ၊ ဤကာယ၏၊ ခုဖြစ်ခုပျက်၊ မမြဲချက်ကို၊ ကွက်ကွက်ကွင်းကွင်း၊ ဉာဏ်ရောင်လင်းက၊ ယင်းသို့ကာယ၊ ဟူသမျှ၌၊ ဒုက္ခချည်းသာ၊ ငြီးငွေ့လာ၊ မုန်စွာ စင်ကြယ်ကြောင်း။**

**၂။ ရုပ်နာမ်နှစ်ဝ၊ ဤကာယ၏၊ ဒုက္ခသက်သက်၊ ဆင်းရဲချက်ကို၊ ကွက်ကွက်ကွင်းကွင်း၊ ဉာဏ်ရောင်လင်းက၊ ယင်းသို့ကာယ၊ ဟူသမျှ၌၊ ဒုက္ခချည်းသာ၊ ငြီးငွေ့လာ၊ မုန်စွာ စင်ကြယ်ကြောင်း။**

**၃။ ရုပ်နာမ်နှစ်ဝ၊ ဤကာယ၏၊ အနတ္တတွက်၊ နှစ်မဲ့ချက်ကို၊ ကွက်ကွက်ကွင်းကွင်း၊ ဉာဏ်ရောင်လင်းက၊ ယင်းသို့ကာယ၊ ဟူသမျှ၌၊ ဒုက္ခချည်းသာ၊ ငြီးငွေ့လာ၊ မုန်စွာ စင်ကြယ်ကြောင်း။**

**ဆရာတော်** ။ ။အဲဒါလို အနိစ္စ ဒုက္ခ အနတ္တ သဘောတွေ ထင်နေကြမှကောင်းတာ၊ ထင်နေတော့ ဖြစ်ပျက်လာသမျှ "သူ့သဘောအတိုင်း ဖြစ်ကြတာပဲလေ"လို့ ခွင့်လွှတ်နိုင်တယ်၊ စိတ်ကို ဖြေဖျောက်နိုင်တယ်၊ ဆိုကြစမ်းပါ၊ "မအိုပါလို့၊ ငါက ဆိုလည်း"...

**သံဃာတော်များ** ။ ။(၁) **မအိုပါလို့၊ ငါက ဆိုလည်း၊ ငါဆိုမရ၊ အိုကြရ၊ အနတ္တ ခန္ဓာကိုယ်၊**

(၂) **မနာပါလို့၊ ငါကဆိုလည်း၊ ငါဆိုမရ၊ နာကြရ၊ အနတ္တ ခန္ဓာကိုယ်၊**

(၃) **မသေပါလို့၊ ငါကဆိုလည်း၊ ငါဆိုမရ၊ သေကြရ၊ အနတ္တ ခန္ဓာကိုယ်။**

ဤဘက်ရက်ပိုင်းများတွင် နံနက်ခင်း၌ ဤကဲ့သို့သော ဩဝါဒများကို ပေး၍ ဤကဲ့သို့သော သံဝေဂလင်္ကာများကို ဆရာတော်က သင်ပေးထားသဖြင့် သံဃာတော်များလည်း အလွတ်ရနေကြသည်။

# မမြဲတာကို အမြဲ ပြောလာတဲ့ ဆရာတော်ကြီး

## ရုပ်တရားအပေါ် ရှုပွားရပုံ

ရှင်တော်ဗုဒ္ဓ၏တရားတော်တို့သည် လက်တွေ့ကျ၏၊ သဗ္ဗညုတဉာဏ်တော်ဖြင့် မြင်၍ ဟောထားသောကြောင့် လုံးဝ မှန်ကန်သည်၊ ထို့ကြောင့် ဉာဏ်ပညာရှိ၍ အသက်ကြီးလာတဲ့သူတိုင်း ထောက်ခံမြဲဖြစ်၏၊ ယခုလည်း ဆရာတော်က သူကိုယ်တိုင် သဘောကျ၍ နံနက်ခင်းဩဝါဒတို့၌ သံဃာတော်များ ရွတ်ဆိုဖို့ရန် သင်ပေးထားသည်။

**"အဝိဇ္ဇာ တဏှာ အရင်းခံ၍ ရှေးကံက စီမံလိုက်သော ဤခန္ဓာကိုယ်သည် တစ်လုံးတစ်ခဲ တစ်တွဲတည်းသာ ထင်ရသော်လည်း ကံ စိတ် ဥတု အာဟာရတို့ကြောင့် အသီးအသီး ဖြစ်၍ နေသော ရုပ်ကလာပ် အမှုန်အမွှားတို့သာ ဖြစ်ချေသည်။**

**ဤရုပ်ကလာပ် အမှုန်အမွှားတို့သည် အချိန်ရှိသမျှ ဖြစ်၍ ဖြစ်၍, ဖြစ်တိုင်း ဖြစ်တိုင်း ပျက်၍ ပျက်၍, ပျက်တိုင်း ပျက်တိုင်း ထပ်၍ ထပ်၍ ဖြစ် ပျက်နေသောကြောင့် မမြဲသော အနိစ္စတို့ပါတကား။**

**မမြဲသည့်အတွက် အဖြစ် အပျက် ဒဏ်ကို ခံနေရသောကြောင့် ကြောက်ဖွယ်ကောင်းသော ဒုက္ခတို့ပါတကား။**

**ကြောက်ဖွယ်ကောင်းသော ဒုက္ခဖြစ်၍ အနှစ်သာရ အတ္တ မရှိသော (အတ္တ မဟုတ်သော) အနတ္တတို့ပါတကား။"**

ဤသို့လျှင် သင်ပေးထားသည့်အတိုင်း သံဃာတော်များက သံပြိုင်ညီညာ ရွတ်ဆိုပွားများကြရသည်။

ဤသည်ကား ရုပ်တရားအပေါ် ရှုမှတ် ပွားများရပုံတည်း။

## နာမ်တရားအပေါ် ရှုပွားရပုံ

ရုပ်တရားအပေါ်မှာ ရှုပွားပြီးလျှင် နာမ်တရားအပေါ်မှာ ရှုပွားရပုံကိုလည်း သံဃာတော်များက ဆက်လက်ဆိုရ၏၊ အလွတ်ဆိုကြဖို့ရန် ကျက်မှတ်ထားကြရန် ဆရာတော်က သတိပေး တိုက်တွန်းထားသည်။

ဆက်လက် ဆိုကြရ၏။ ...

**"စိတ်စေတသိက် နှစ်ပါးကို (အာရုံကို ယူတတ်) အာရုံသို့ ညွတ်တတ်သောကြောင့် နာမ်တရားဟု ခေါ်ရ၏၊ ထိုနာမ်တရားများသည် စိတ်တစ်ပါးနှင့် စေတသိက်အများ ပေါင်း၍ ဖြစ်ရသောကြောင့် နာမ်ကလာပ်ပင် ဖြစ်ချေသည်။**

**ဤ နာမ်ကလာပ်များလည်း လက်ဖျောက်တစ်ချက်တီးခန့်ကာလ၌ ကုဋေတစ်သိန်းမက ဖြစ်ပျက်နေသောကြောင့် မမြဲသော အနိစ္စတို့ပါတကား။**

**မမြဲသည့်အတွက် အဖြစ် အပျက် ဒဏ်ကို ခံနေရသောကြောင့် ကြောက်ဖွယ်ကောင်းသော ဒုက္ခတို့ပါတကား။**

**ကြောက်ဖွယ်ကောင်းသော ဒုက္ခဖြစ်၍ အနှစ်သာရ အတ္တ မရှိသော (အတ္တ မဟုတ်သော) အနတ္တတို့ပါတကား။"...**

သံဃာတော်များ အပေါင်းအစု အထုအထည်ဖြင့် သံပြိုင်ညီညာ ရွတ်ဆို ထွက်ပေါ်လာသော အသံကြီးသည် ဩဝါဒခန်းမကြီးတစ်ခုလုံး ဟိန်းလျက် လျှံတက်သွားတော့သည်။

## ရုပ်နာမ်၂ ပါးကို ဣရိယာပုတ် ၄ ပါးဖြင့် ခွဲခြားရှုပုံ
### သွား ရပ် ထိုင် လျောင်းစဉ်

ရုပ်နာမ် ၂ ပါးအပေါ်၌ ဝိပဿနာဉာဏ်ဖြင့် အကယ် ရှုမှတ်သောအခါ ထင်လွယ် မြင်လွယ်ဖို့ရာ ဤသို့ပင်လျှင် ဦးတည်လမ်းကြောင်း ပေးထားသည်၊ ဆက်လက် ဆိုကြရ၏။

**"များစွာသော သတ္တဝါတို့သည် ရုပ်တရားချည်းလည်း မဖြစ်နိုင်၊ နာမ်တရားချည်းလည်း မဖြစ်နိုင်၊ ရုပ်နာမ် ၂ ရပ် ပေါင်းစပ်မှသာ ဖြစ်နိုင်ကြသည်၊ ထို့ကြောင့် ဤရုပ်နာမ် ၂ ပါးကို ဣရိယာပုတ် ၄ ပါးဖြင့် ခွဲခြားသောအခါ...**

**သွားဆဲခဏ၌ ဖြစ်ကြသော ရုပ်နာမ်တရားတို့သည် ရပ်ဆဲခဏသို့ မရောက်ကြဘဲ အချိန်ရှိသမျှ ဖြစ်၍ ဖြစ်၍, ဖြစ်တိုင်း ဖြစ်တိုင်း ပျက်၍ ပျက်၍, ပျက်တိုင်း ပျက်တိုင်း ထပ်၍ ထပ်၍ ဖြစ် ပျက်နေသောကြောင့် မမြဲသော အနိစ္စတို့ပါတကား။**

**မမြဲသည့်အတွက် ၊ပေ၊ ဒုက္ခတို့ပါတကား။**

**ကြောက်ဖွယ်ကောင်း ၊ပေ၊ အနတ္တတို့ပါတကား။**

**ရပ်ဆဲခဏ၌ ဖြစ်ကြသော ရုပ်နာမ်တရားတို့သည် ထိုင်ဆဲခဏသို့ မရောက်ကြဘဲ အချိန်ရှိသမျှ ဖြစ်၍ ဖြစ်၍ ၊ပေ၊ မမြဲသော အနိစ္စတို့ပါတကား။**

**မမြဲသည့်အတွက် ၊ပေ၊ ဒုက္ခတို့ပါတကား။**

**ကြောက်ဖွယ်ကောင်း ၊ပေ၊ အနတ္တတို့ပါတကား။**

**ထိုင်ဆဲခဏ၌ ဖြစ်ကြသော ရုပ်နာမ်တရားတို့သည် လျောင်းဆဲခဏသို့ မရောက်ကြဘဲ အချိန်ရှိသမျှ ဖြစ်၍ ဖြစ်၍ ၊ပေ၊ မမြဲသော အနိစ္စတို့ပါတကား။**

**မမြဲသည့်အတွက် ၊ပေ၊ ဒုက္ခတို့ပါတကား။**

**ကြောက်ဖွယ်ကောင်း ၊ပေ၊ အနတ္တတို့ပါတကား။**

## ခြေတစ်လှမ်းတွင်လည်း ထပ်မံ ခွဲစိတ်၍ ရှုရပုံ
### အသေးစိတ် တစ်ခုချင်း ရှုပွား

ဣရိယာပုတ် ၄ ပါးတွင်လည်း အဦးဆုံးဖြစ်သော သွားခြင်းဣရိယာပုတ်၌ ထပ်မံ အသေးစိတ်၍ ရှုရပုံကို ပြပြန်သည်၊ အလွန်ကောင်းလှ၏။

**"သွားဆဲခဏ၌လည်း ပထမခြေလှမ်း၌ ဖြစ်ကြသော ရုပ်နာမ်တရားတို့သည် ဒုတိယခြေလှမ်းသို့ မရောက်ကြဘဲ အချိန်ရှိသမျှ ၊ပေ၊ အနိစ္စတို့ပါတကား။ ဒုက္ခတို့ပါတကား။ အနတ္တတို့ပါတကား။**

**ဒုတိယခြေလှမ်း၌လည်း ခြေကို မြှောက်ဆဲခဏ၌ ဖြစ်ကြသော ရုပ်နာမ်တရားတို့သည် ရှေ့တိုးဆဲခဏသို့ မရောက်ကြဘဲ ၊ပေ၊ အနိစ္စတို့ပါတကား။ ဒုက္ခတို့ပါတကား။ အနတ္တတို့ပါတကား။**

**ရှေ့တိုးဆဲခဏ၌ ဖြစ်ကြသော ရုပ်နာမ်တရားတို့သည် ရှေ့ခြေကို ဆောင်ဆဲခဏသို့ မရောက်ကြဘဲ ၊ပေ၊ အနိစ္စတို့ပါတကား။ ဒုက္ခတို့ပါတကား။ အနတ္တတို့ပါတကား။**

**ရှေ့ခြေကို ဆောင်ဆဲခဏ၌ ဖြစ်ကြသော ရုပ်နာမ်တရားတို့သည် အောက်ချဆဲခဏသို့ မရောက်ကြဘဲ ၊ပေ၊ အနိစ္စတို့ပါတကား။ ဒုက္ခတို့ပါတကား။ အနတ္တတို့ပါတကား။**

**အောက်ချဆဲခဏ၌ ဖြစ်ကြသော ရုပ်နာမ်တရားတို့သည် တည်ရာအပြင်ဝယ် ထိဆဲခဏသို့ မရောက်ကြဘဲ ၊ပေ၊ အနိစ္စတို့ပါတကား။ ဒုက္ခတို့ပါတကား။ အနတ္တတို့ပါတကား။**

**တည်ရာအပြင်ဝယ် ထိဆဲခဏ၌ ဖြစ်ကြသော ရုပ်နာမ်တရားတို့သည် ဖိ၍ နင်းဆဲခဏသို့ မရောက်ကြဘဲ ၊ပေ၊ အနိစ္စတို့ပါတကား။ ဒုက္ခတို့ပါတကား။ အနတ္တတို့ပါတကား။**

## နှမ်းအိုးကင်းထက် နှမ်းတွေ ကျက်သလို
### အစိတ်ခြောက်ပါး ရှုပွားရပုံ

သီလအခြေခံဖြင့် သမာဓိရင့်သန်၍ ဝိပဿနာဉာဏ် အမြင်သန်လာသောအခါ တရှိန်ရှိန် တသုတ်သုတ်, တရုတ်ရုတ် တသဲသဲ, တဖွဲဖွဲ တသက်သက် ဖြစ်ပျက်နေသော ရုပ်နာမ်တို့ကို အထင်းသား အကွင်းသား ဉာဏ်ဖြင့် တွေ့မြင်ရမည်ဖြစ်ကြောင်းကိုလည်းကောင်း၊

တဖျစ်ဖျစ်နှင့် နှမ်းအိုးကင်းထက်တွင် နှမ်းလုံးတွေ ကျက်နေသလို အကွက်ကျကျ ဉာဏ်ဖြင့် တွေ့မြင်ရမည်ကိုလည်းကောင်း အားရစဖွယ်ကြီး အမိန့်ရှိနေပါသည်၊ ထို့ကြောင့် "အို-တရားရှုသူများ သတိထား၍ ကြိုးစားကြလော့"ဟူ၍လည်း အားပေးနေပါသည်။

**"အို အို လူများ, သတိထားလော့၊ သွားဆဲကာလ, ခါသမယဝယ်, ပထမခြေလှမ်း, ရုပ်နာမ်တန်းတို့, လှမ်းဒုတိယ, မရောက်ကြဘူး။**

**ဒုတိယခြေလှမ်း, ရုပ်နာမ်တန်းလည်း, လှမ်းတတိယ, မရောက်ကြပင်၊ တစ်လှမ်းတွင်လည်း, မြှောက်စဉ်တစ်မျိုး, ရှေ့တိုးတစ်ဖုံ, လွန်တုံတစ်ဝ, အောက်ချတစ်ခင်း, ထိခြင်းတစ်လွှ, ဖိနင်းစေအောင်, တရွှေ့ရွှေ့မြန်း, ခြေလှမ်းပိုင်းခြား, အစိတ်ခြောက်ပါးဝယ်, သွယ်သွယ်နာမ်တန်း, ရုပ်အတန်းတို့, နှမ်းအိုးကင်းထက်, နှမ်းတွေကျက်သို့ ဖြစ်ပျက်နေကြ, အနိစ္စသည်, ဒုက္ခ အနတ္တချည်းတည်း။**

ဤသို့လျှင် ယခုအခါ ဆရာတော်ကြီးက မိမိတို့ခန္ဓာနှင့်တကွ လောကကြီးတစ်ခုလုံး "မမြဲဘူး" ဆိုတာကို အမြဲလိုပင် ပြောနေတတ်ပါတော့သည်။"

## လုံ့လဝီရိယထားဖို့ သိကြားကပင် တိုက်တွန်း
### နံနက်ခင်း နေ့စဉ်သြဝါဒသဘင်

၁၃၃၉ ခု နတ်တော်လဆန်း ၁ ရက်, ယနေ့ နံနက်ခင်းတွင်လည်း ထုံးစံအတိုင်း ဆရာတော်က သြဝါဒပေးရန် သြဝါဒခန်းမကြီးအတွင်း ကုလားထိုင်ပေါ်သို့ အသင့် ရောက်နေပြီ၊ သံဃာများက မစုံလင်သေး၊ တဖြည်းဖြည်း တဖွဲဖွဲနှင့်လာနေကြတုန်းရှိသေးသည်၊ သက်န်းလက်ကတော့ထိုး၍ လက်အုပ်ကလေးချီကာ တစ်ပါးချင်း တစ်ပါးချင်း ဝင်လာနေပါ၏။

ရောက်နှင့်သော သံဃာများက "ဣတိပိ သော ဘဂဝါ အရဟံ သမ္မာသမ္ဗုဒ္ဓေါ" စသည်ဖြင့် ဘုရားဂုဏ်တော်ပါဠိကို သံပြိုင်ညီညာ ရွတ်ဆိုနေကြပြီ၊ ပြီးလျှင် အနက်ပါ ဆိုကြ၏၊ ဆရာတော်ကား ငြိမ်သက်စွာ နားထောင်နေသည်၊ "မှားလျှင် ထောက်ပေးမည်, ပြင်စရာရှိလျှင် ပြင်ပေးမည်" ဟူသောသဘောဖြစ်ဟန် တူပါ၏။

## ဝီရိယတွေ လျော့မှာ စိုးလို့

သံဃာတော်များ ရွတ်ဆိုပြီးသောအခါ ခန်းမကြီးတစ်ခုလုံး တိတ်သွားသည်၊ စကားပြောသံ ချောင်းဟန့်သံ မရှိရ, တဖျောက်ဖျောက်နှင့် ချီးတတ်သော လက်ချောင်း ခြေချောင်း ချိုးမှုလည်း မပြုလုပ်ရဆိတ်ငြိမ်နေသည်၊ အပ်ကျသံပင် ကြားရမည်ထင်၏၊ ထိုအခါ ဆရာတော်က သြဝါဒ စ၍ ပေးပါတော့သည်။

"ဦးပဉ္ဇင်းတို့ ကိုရင်တို့က လုံ့လဝီရိယနည်းကြတာကိုး၊ ဘုန်းကြီး ကြားဖူးတယ်၊ ဂျပန်နိုင်ငံက စက်ရုံ အလုပ်ရုံတွေထဲမှာ ချထားတဲ့ ထိုင်ခုံတွေဟာ နောက်မှီမပါဘူး၊ လက်တင်လဲ မပါဘူးတဲ့၊ ခွေးခြေလို ဖင်ထိုင်စရာခုံပဲ ပါတယ်တဲ့။

ဘာ့ကြောင့်လဲဆိုတော့ နောက်မှီတွေ လက်တင်တွေ ပါလာရင် မှီမယ်, လက်တင်မယ်, ဇိမ်ခံမယ်၊ အဲလိုဆိုရင် အဲဒီအလုပ်သမားဟာ လုံ့လဝီရိယတွေ လျော့သွားပြီ၊ ဒါကို မကြိုက်လို့ နောက်မှီတွေ လက်တင်တွေ မထည့်တာတဲ့၊ ဘုန်းကြီးက သဘောကျလိုက်တာ၊ အဲဒါမျိုးမှ ကြိုက်တာ၊ အဲလို ကြိုးစားကြရမှာ၊ ခုတော့ မဟုတ်ကြဘူး၊ မင်းတို့တစ်တွေက အိပ်ပဲ့ပဲ့နဲ့၊ တယ်-ဝီရိယ နည်းကြတာကိုး။

မင်းတို့သာ မကပါဘူး၊ တို့မြန်မာပြည်ထောင်စု တစ်ခုလုံးပဲ ဆိုရမှာပါ၊ ဝီရိယနည်းကြတာပဲ၊ သူများနိုင်ငံတွေနဲ့ ယှဉ်ရင် မျက်နှာမငယ်ရအောင် ဖျတ်ဖျတ်လတ်လတ် ရှိကြရမှာ။

## ဖျတ်ဖျတ်လတ်လတ် ရှိကြရမှာ

ဆရာတော်က ဩဝါဒနာယူရန် လာကြသော သံဃာများ မစုံနိုင်၍ ဝီရိယနည်းသည်ဟု ထင်သောကြောင့် အပြစ်တင်ကာ မိန့်မြွက်နေခြင်း ဖြစ်၏၊ ဆရာတော်ကား သံဃာများ၏ အလျင်ဦးအောင် အမြဲ ရောက်နေကျ ဖြစ်သည်၊ နောက်ကျသည်ဟူ၍ မရှိသလောက် ဖြစ်၏။

ဆရာတော်က အမိန့်ရှိဖူးသည်၊ "သူ့ဘဝ တစ်လျှောက်လုံး၊ ကျောင်းသားကလေးဘဝ, သာမဏေဘဝ, ဦးပဥ္စင်းကလေးဘဝတွေတုန်းကလည်း စာတက် သွားရာ၌ သူက ရှေ့က ဦးအောင် အမြဲ ရောက်နေကျ ဖြစ်သည်" ဆို၏။

ယခု စာချဘုန်းကြီးဘဝ, ကျမ်းပြုဆရာတော်ဘဝသို့တိုင်အောင်လည်း ဆရာတော့်မှာ "ဝီရိယတုံး ဝီရိယခဲကြီး" ဖြစ်နေသည်ကို အများပင် မြင်နေကြရ၏၊ ဆရာတော်က ဆက်လက် အမိန့်ရှိနေပြန်သည်။

"မင်းတို့ တက်လူတွေဆိုတာ အမြဲတမ်း ဖျတ်ဖျတ်လတ်လတ် ရှိကြရမှာ၊ မင်းတို့တစ်တွေက... တယ်-လုံ့လဝီရိယတွေ နည်းကြ။

ကိုယ်ဖြစ်ချင်တဲ့ဥစ္စာကို လုံ့လဝီရိယနှင့် လုပ်ပြီး မယူချင်ကြဘူး၊ ရှေးကံရဲ့ အကျိုးပေးကိုသာ စောင့်မျှော်ပြီး ယူချင်တတ်ကြတာကိုး။

ရှေးကံဆိုတာ သူ့ဘာသာသူ လာနိုင်တဲ့ စွမ်းအားရှိတာက နည်းပါတယ်၊ အလွန်သန်တဲ့ကံဖြစ်ရင်သာပါ၊ အများအားဖြင့် ပစ္စုပ္ပန် လုံ့လဝီရိယတွေနှင့် ကြိုးစား လမ်းခင်းပေးထားမှ (ရေလာမြောင်းပေး လုပ်ထားမှ) အကျိုးပေးမယ့် ရှေးကံတွေက လွယ်လွယ် ရောက်လာနိုင်တာပဲ။

## အခွင့်အလမ်းကို ဖန်တီးယူချင်

ဆရာတော်ကား သူ့ဘာသာ သူအကျိုးပေးလာမည့် ရှေးကံကို စောင့်မျှော်သည့် အလေ့မရှိ၊ အခွင့်အလမ်းကို စောင့်မျှော်၍ မနေချင်၊ အခွင့်အလမ်းဖြစ်လာအောင်သာ လုပ်ယူချင်သည်၊ ဖန်တီးယူချင်သည်၊ သို့ဖြစ်၍ ဆက်လက် မိန့်မြွက်နေပြန်၏။

"ဘုန်းကြီးကိုယ်တိုင်မှာပဲ ရှေးကံတွေဆိုတာ ပါခဲ့ပါတယ်၊ ရှိပါတယ်၊ အခုလို သာသနာပြုလုပ်ငန်းတွေ ကျယ်ကျယ်ပြန့်ပြန့် လုပ်နိုင်မယ်ဆိုတာ စောစောကပဲ သိခဲ့ပါတယ်၊ ဘာလို့လဲဆိုတော့ ဘုန်းကြီးရဲ့ ပဋိသန္ဓေဘဝ စတော့မယ် ဆိုတော့ ဘုန်းကြီးရဲ့ မယ်တော် (ဒေါ်အုန်းလှိုင်)မှာ ထူးထူးဆန်းဆန်း အိပ်မက်တွေ မက်ပါသတဲ့။

ဘာတွေလဲဆိုတော့ အလွန်ကျယ်ပြန့်တဲ့ ရေပြင်ကြီး, ပြာလဲ့လဲ့နှင့် အေးကြည်နေတဲ့ ရေပြင်ကြီးပေါ်မှာ အနံ့အပြား အမြောက်အမြား ဖွေးနေအောင် ကြာတွေ ပွင့်နေတာကို မြင်မက်ပါသတဲ့။

ဒါကို လူကြီးတွေ ပြောပြတော့ "နင့်ရင်သွေးဟာ ယောက်ျားကလေးပဲ ဖြစ်သင့်တယ်၊ ယောက်ျားကလေး ဖြစ်ရင်လဲ ကျယ်ကျယ်ပြန့်ပြန့်နှင့် အများကောင်းကျိုး ဆောင်နိုင်သူပဲ ဖြစ်ရမယ်"လို့ နိမိတ်ဖတ်ကြပါသတဲ့။

ဒီ အကြောင်းကို စောစောပိုင်းတုန်းကတော့

ဘုန်းကြီး မပြောခဲ့ပါဘူး၊ ဘာလို့လဲဆိုတော့ ကြောင်တောင်တောင် ထင်မှာစိုးလို့။

ပြီးတော့လဲ တစ်ခါတုန်းက ဆဋ္ဌသင်္ဂါယနာ ကိစ္စနှင့် မန္တလေးကနေ ရန်ကုန်ကို သံဃာတွေ ရထားတွဲကြီး အပြည့်နှင့် လာနေကြတယ်၊ ပျဉ်းမနား ဖေယျဝတီဘူတာရောက်တော့ ရထားကြီးအရပ်မှာ ဒါယကာ-ဒါယိကာမတွေက စားကောင်းသောက်ဖွယ်တွေ ကပ်လှူကြတယ်။ အဲဒီထဲမှာ ကုလားကြီးတစ်ယောက်က ပန်းကုံးကြီးတစ်ခု ယူလာပြီး ရထားပေါ် တက်လာတယ်၊ ရထားပေါ် ရောက်တော့ ဘယ်ကိုယ်တော်ကို စွပ်ရ မှန်းမသိအောင် ဖြစ်နေပုံရတယ်၊ ယောင်တောင်တောင် ဖြစ်နေတာပေါ့၊ အဲဒီအချိန်မှာ ကိုယ်တော်တစ်ပါးက ဘုန်းကြီးကို မေးထိုးပြတယ် ထင်ပါရဲ့၊ ဘုန်းကြီးဆီကို လာတဲ့ပြီး ပန်းကုံးကြီး စွပ်လိုက်ပါလေရော၊ အောင်မြင်သူတို့ ရတတ်တဲ့ ပန်းကုံးမျိုးပေါ့။

ဒါတွေဟာလဲ ဘုန်းကြီးရဲ့ သာသနာပြုလုပ်ငန်း အောင်မြင်ဖို့ အတိတ် နိမိတ်တွေပဲလို့ အောက်မေ့ထားတယ်။"

## ဝီရိယနှင့် လမ်းခင်းပေးထားလို့သာ

ယနေ့ ဆရာတော်၏ ဩဝါဒကို နာယူကြရသည်မှာ အရသာ တစ်မျိုးရှိကြပါ၏၊ အဘယ့်ကြောင့်ဆိုသော် ဆရာတော်၏ ဘဝအစပိုင်း အခြေအနေကိုပါ သိခွင့်ရကြ၍ ဖြစ်ပါသည်၊ အဘယ်သို့သော ရည်ရွယ်ချက်ဖြင့် မိန့်မြွက်နေသည်ကား မသိပါ၊ ဆက်လက် မိန့်နေပြန်ပါသည်။

"အဲသလို ရှေးကံတွေ ပါရမီတွေ ရှိသားပဲ၊ တစ်နေ့နေ့ ရောက်လာကြလိမ့်မယ်၊ အကျိုးပေးလာကြမှာပဲဆိုပြီး ဘုန်းကြီး အိပ်နေစမ်းပါလား၊ ဖြစ်လာမလားဆိုတာ၊ ဘာတစ်ခုမှ ဖြစ်လာမှာမဟုတ်ဘူး၊ ဘယ်ကံတွေမှ ရှေ့ကို ခေါင်းဆောင်တက်လာကြမှာ မဟုတ်ဘူး။

ဒါကို သိလို့ ဘုန်းကြီးဘာသာ ဘုန်းကြီးတလှုပ်လှုပ် တရှားရှားနှင့် ကြိုးစားလာခဲ့ရတာပဲ၊ အဲဒီလောက် လုံ့လ ဝီရိယတွေနဲ့ လမ်းခင်းပေးထားလို့သာ ဒီမျှလောက် ဖြစ်လာကြတာပဲ၊ လုံ့လ ဝီရိယ သတိ သမာဓိ ပညာတွေနှင့် လမ်းခင်း ပေးမထားဘူးဆိုရင် ဘာမှ ဖြစ်လာမှာ မဟုတ်ဘူး။

အဲဒီ ကံတွေလဲ အိပ်နေကြမှာပဲ"။

## ဖြစ်ချင်တာနှင့် တန်အောင်ကြိုးစားမှ

ဆရာတော်က တပည့်များ လုံ့လ ဝီရိယနည်းကြသည်ကို အကြောင်းပြု၍ လုံ့လ ဝီရိယ ထက်သန်လာကြစေရန် မိမိဘဝလှုပ်ရှားမှုတို့နှင့် နှိုင်းယှဉ်ပြလျက် မိန့်မြွက်နေခြင်း ဖြစ်ပေသည်။

ဆက်လက်၍ မိန့်ပြန်၏။

"တစ်ခါတုန်းက ဘုန်းကြီးရဲ့ ဘကြီးတော်တဲ့ ဒကာကြီးက မေးဖူးတယ်၊ "ဦးပဥ္စင်း ဘာဆုတောင်းသလဲ"တဲ့၊ ဘုန်းကြီးက အများ ကောင်းကျိုးအတွက် ကျယ်ကျယ်ပြန့်ပြန့် ရည်ရွယ်ချက်နှင့် ဆောင်ရွက်နေတာတွေကို မြင်လို့ မေးတာ၊ ဒီတော့ ဘုန်းကြီးက ပြန်ပြောရတယ်။...

"ဘကြီးရာ... ဘာဆုတောင်းတယ်ဆိုတာ ဆောင်ရွက်နေတဲ့ လုပ်ငန်းကို ကြည့်ပြီး သိကြရတာပါ၊ ပြီးတော့ ဘာဆုတွေပဲ တောင်းတောင်း၊ တောင်းတိုင်းရတာ မဟုတ်ပါဘူး၊ ရချင်တာနှင့် လိုက်လျောအောင်၊ ထိုက်တန်အောင်၊ အလုပ်လုပ်မှ၊ ပါရမီတွေ ဖြည့်မှ ရနိုင်တာပါလို့ ပြန်ဖြေရတယ်"။

## လုံ့လမပါဘဲ ချမ်းသာ ဘယ်မှာရမလဲ

ဤသို့လျှင် ဆရာတော်က တပည့်များ လုံ့လဝီရိယရှိဖို့အရေး ကြားဖူးနားဝရှိသမျှရော၊ ကိုယ်တွေ့ကြုံရသမျှပါ ပေါင်းစပ်၍ တင်ပြပြီးနောက် ဘုရားဟော ပါဠိတော်မှ စာတွေ့ကိုပါ တင်ပြနေပြန်သည်။

"တစ်ခါတုန်းက သိကြားမင်းက မေ့မေ့လျော့လျော့နှင့် လုံ့လဝီရိယနည်းပါးတဲ့ အပျင်းထူတဲ့ သူ့သား "သုဝီရ"ကို ဆုံးမစကားပြောဖူးတယ်။

* "အနုဋ္ဌဟံ အဝါယာမံ,
သုခံ ယတြာဓိဂစ္ဆတိ၊
သုဝီရ တတ္ထ ဂစ္ဆာဟိ,
မဉ္စ တတ္ထေဝ ပါပယ" ...

လို့ ပြောတယ်၊ အဓိပ္ပာယ်က "ချစ်သား သုဝီရ ... ထကြွလုံ့လ မပါဘဲ၊ ဝါယာမလဲ မစိုက်ရဘဲ ချမ်းသာသုခ ရနိုင်တယ်ဆိုတဲ့ နေရာ ရှိရင် အဲဒီနေရာကို သင် သွားပါ၊ ငါ့ကိုလဲ ပို့စမ်းပါ"တဲ့။

သူ့သားကြီးကို ဆုံးမနေတာ၊ ဆိုလိုတာက... "ထကြွ လုံ့လ မပါဘဲ၊ ဝါယာမလဲ မစိုက်ရဘဲ ချမ်းသာသုခ ရနိုင်တဲ့နေရာဆိုတာ ဘယ်မှာမှ မရှိဘူး"တဲ့၊ ဒါ့ကြောင့် လုံ့လဝီရိယ ရှိပါ"လို့ အသားကျ ပြောလိုရင်း...။

ဒီနေရာမှာ သတိရှိကြစမ်းပါ၊ စည်းစိမ်ချမ်းသာတွေ အပြည့်နှင့်နေတဲ့ တာဝတိံသာက သိကြားမင်းကတောင် လုံ့လဝီရိယကို တန်ဖိုးထားတာ။

ဒါ့ကြောင့် ဘုန်းကြီးကတော့ ဒါတွေကို သိထားလို့ လုံ့လဝီရိယ သန်ခဲ့တယ်လေ၊ ဒါ့ကြောင့်လဲ ဆရာသမားတွေက ဘုန်းကြီးအပေါ်၊ ဘုန်းကြီးရဲ့ လုပ်ငန်းတွေအပေါ် အားရကြတာ၊ အထူးသဖြင့် ကျေးဇူးရှင် မြောင်းမြဆရာတော်ဘုရားကြီးက ဘုန်းကြီးအပေါ် အားရတော်မူသွားတယ်။"

ဤသို့လျှင် ဆရာတော်က သိုင်းသိုင်းဝိုင်းဝိုင်း မြိုင်မြိုင်ဆိုင်ဆိုင် ပြောပြ ဆုံးမတော်မူနေသည်။

## အသက်ရှင်နေသူ ဟူသမျှ အလုပ်လုပ်နေရမှာပဲ
## စိုးရိမ်စရာရောဂါ မရှိတော့ပါ

၁၃၇၉ ခု နတ်တော်လဆန်း ၄ ရက်နေ့ကား သမားတော်ကြီး ဦးထွန်းသင်က ဓာတ်မှန်ရိုက်ရန် ရက်ချိန်းပေးထားသောနေ့ ဖြစ်သည်၊ ထို့ကြောင့် မန္တလေးဆေးရုံကြီးတွင် ရှေ့တည့်တည့်မှ တစ်ကြိမ်၊ ယာဘက် စောင်းလျက် တစ်ကြိမ် ဓာတ်မှန်ရိုက်ကြ၏၊ ထို့နောက် ဓာတ်မှန်ဘက်ဆိုင်ရာ အကြီးအကဲ ဖြစ်သည့် ဒေါက်တာဒေါ်ဌေးမြင့် ရောက်လာသောအခါ နှလုံးရောဂါသက်သက် စမ်းသပ်ဖို့ရန် စက်တစ်မျိုးဖြင့် ပက်လက်အိပ်စေပြီး ရင်ဘတ်တွင် ၂ ကြိမ်၊ ဝဲဘက်စောင်းလျက် ၃ ကြိမ်၊ ယာဘက်စောင်းလျက် ၃ ကြိမ် ရိုက်စေပြန်သည်၊ အားလုံး ကြည့်ရှုစစ်ဆေးပြီးသောအခါ နှလုံးစသည်၌ "စိုးရိမ်စရာရောဂါ မရှိတော့ပါ"ဟု အဖြေပေးကြ၏၊ သို့သော် ဆရာတော်ကမူ "နေရာတာ တစ်မျိုးကြီးပဲ"ဟု အမိန့်ရှိသည်၊ ဆရာဝန်များက ဆရာတော်ကြီး ကျန်းမာစေချင်ကြ၏၊ ဆရာတော်ကြီး ကျန်းမာ၍ ကျမ်းစာတွေ ရေးသားနိုင်ဖို့၊ စာပေတွေ ပို့ချနိုင်ဖို့၊ နေ့စဉ်ဩဝါဒတွေ ပေးနိုင်ဖို့ ဝိုင်း၍ ဂရုစိုက်ကြသည်၊ ဆရာဝန်ကြီးဦးထွန်းသင်နှင့် ဆရာတော်၏ တပည့်မ ဒေါက်တာညိုညိုတို့ဆိုလျှင် လိုအပ်သမျှ မျက်ခြေမပြတ် အကဲခတ်၍ စောင့်ရှောက် ကုသပေးနေကြသည်။

ထို့ကြောင့်လည်း ဆရာတော်ကြီးက သာသနာပြုဖို့အတွက် တစ်အားတက်၍ နေရပြန်သည်၊ ယခု ဆရာတော်မှာ သက်တော် ၇၈ နှစ် ပြည့်တော့မည်၊ လူတွေဆိုလျှင် အသက် ၆၀ မှာပင် ပင်စင်စား၍ အနားယူကြ၏၊ ဆရာတော်မှာကား အနားယူဖို့ စိတ်ကူးထဲ၌ပင် မထည့်။

သုံးလောကထွတ်ထား ဘုရားကိုယ်တော်မြတ်လည်း အနားမယူပါ၊ ပရိနိဗ္ဗာန်စံရာ ညောင်စောင်းပေါ်အထိ၊ ညောင်စောင်းပေါ်မှနေ၍ သုဘဒ္ဒပရိဗိုဇ်အား တရားဟော ချွေချွတ်ခြင်းဖြင့် အလုပ်လုပ်သွားတော်မူခဲ့ပါသည်၊ ဆရာတော်က ဤသို့အားဖြင့် အဖဘုရားရှင်ကို အားကျတော်မူပါ၏။

* သံယုတ် (သဂါထာဝဂ္ဂ) - ၂၈၈၊

## ကိုယ်ခန္ဓာ့ကျန်းလည်း ညှိုးနွမ်းမရှင်

ဆရာဝန်များ၏ ဝိုင်းဝန်းစောင့်ရှောက်ကုသမှုကြောင့် ခန္ဓာကိုယ် ကျန်းမာရေးကား အတော်ကောင်းနေသလို ဖြစ်၏၊ သို့သော် စိတ်ဓာတ်အနေမှာကား အများနှင့် မရောချင်သလိုလို တစ်ပါးတည်းသာ နေချင်တော့သလိုလို ဖြစ်လာ၏၊ အများနှင့် နေရမှာ ငြီးငွေ့လာသည်။

အထူးအားဖြင့် ယခု ရက်ပိုင်း နတ်တော်လထဲတွင် ပို၍ သိသိသာသာကြီး ဖြစ်လာ၏၊ စာချခြင်း၊ ဩဝါဒပေးခြင်းစသော ကိစ္စတို့၌ မလွှဲမကင်းသာ၍ အများနှင့် ဆက်ဆံနေရသော်လည်း စာချပြီးလျှင်၊ ဩဝါဒ ပေးပြီးလျှင် သူ သီတင်းသုံးမြဲ သစ်သားကျောင်းကလေးပေါ်၌သာ တစ်ပါးတည်း နေတော့သည်၊ ကျောင်းတိုက်အတွင်း လှည့်ပတ်ခြင်း၊ ကြည့်ရှုခြင်း မရှိတော့ပေ၊ "မတော်သည့်ကိစ္စ တွေ့ရလျှင် အော်မိမှာ စိုးသည်၊ ဒေါသဖြစ်မိမှာ စိုးသည်"ဟု မိန့်တော်မူ၏၊ ယခုရက်ပိုင်းမှာ အကုသိုလ်စိတ်တွေ မဖြစ်အောင် အထူးစောင့်စည်း ချုပ်တည်းနေတော်မူသည်၊ နောက်ပိုင်းတွင်မူ သူ့ကျောင်းကလေးပေါ်မှာပင် ကြာကြာမနေချင်တော့ဟု မိန့်မြွက်လာပြန်၏၊ စာကြည့်ချိန် စာရေးချိန်မျှလောက်သာ နေပြီး ကျန်အချိန်များတွင် ဆရာတော်ကြီး စကြံကျောင်းကလေးသို့ သွား၍ သွား၍ နေတတ်သည်။

မဟာဂန္ဓာရုံဆရာတော့်ကျောင်းကလေး၏ အနီး ကျောင်းအုတ်တံတိုင်း၏ အရှေ့ဘက် (အပြင်ဘက်)တွင် ကပ်လျက် အင်းရေပြင်ကြီးကို မျက်နှာပြု၍ ဆောက်လုပ်ထားသော ခပ်ကြမ်းကြမ်း သစ်သားကျောင်းဆောင်ငယ်တစ်ခု ရှိ၏၊ အိပ်ခန်း၊ ရေချိုးခန်း၊ ကုဋီခန်းများ ပါဝင်၏၊ အလျားပေ ၅၀ ခန့် ရှည်သော စင်္ကြံနတ်လမ်းပါ တွဲကပ် တပ်ဆင်ထားသည်၊ မြောင်းမြဆရာတော်ကြီး ကြွလာသောအခါ သီတင်းသုံးရန် ရည်ရွယ်ဆောက်ထားခြင်း ဖြစ်၏၊ တစ်ခါ တစ်ခါ ကြွလာသောအခါ သီတင်းသုံးတော်မူ၏၊ ထို့ကြောင့် "ဆရာတော်ကြီးစင်္ကြံကျောင်း"ဟု ခေါ်ကြသည်။

ဤကျောင်းပေါ်မှ နေ၍ အင်းရေပြင်ကြီးကို ကသိုဏ်းရှုနိုင်၏၊ ရေပေါ်မှ ဖြတ်သန်းလာသော လေကောင်းလေသန့်တို့ကိုလည်း တဝကြီး ရှိုက်ယူနိုင်သည်၊ အင်းရေပြင်ကြီး၏ အရှေ့ဘက်ကမ်းကို လှမ်း၍ ကြည့်လျှင် ထုံးဖြူဖြူ ကျောက်တော်ကြီးဘုရားကို အထင်းသား ဖူးတွေ့ရ၏၊ ထို့ထက် ကျော်ကာ မော်၍ ကြည့်ပါလျှင် စိမ်းညိုသော အရှေ့ဘက် ရှမ်းပြည်တောင်တန်းကြီးတို့ကို အထစ်ထစ် အရစ်ရစ် အဖုအဆစ်တို့ဖြင့် တွေ့နိုင်သည်၊ ဤသို့ ဤ နှယ်မျှ ရှုမျှော်ခင်း ကောင်းလှ၏၊ ဆရာတော်က ဤ စင်္ကြံကျောင်းကလေးပေါ်သို့ လာ၍ လာ၍ နေတတ်သည်။

## ပဥ္စုပ္ပန္နမိတ္တမျိုးဆန်ဆန် ဖြစ်ပေါ်လာ

ထိုရက်ပိုင်းက တစ်ခုသော နေ့လယ်ခင်းတွင် ဖြစ်၏၊ စင်္ကြံကျောင်းပေါ်သို့ ဆရာတော် ရောက်လာသည်၊ ထို့နောက် အနီးတွင်ရှိသော အရှေ့တိုက်ကြီးမှ (စလင်း) ဦးဝဏ္ဏိဘကို အခေါ်ခိုင်း၏၊ အကင်းပါး အလိုက်သိစွာ ဝေယျာဝစ္စ ပြုပေးတတ်သူဖြစ်၍ ဦးဝဏ္ဏိတကို အခေါ်ခိုင်းခြင်း ဖြစ်ဟန်တူသည်၊ ဦးဝဏ္ဏိတက ဆောင်ရွက်စရာရှိသမျှကို ဆောင်ရွက်ပေးရသည်၊ ထိုနေ့က ဆရာတော်၏ အသွားအလာ အလှုပ်အရှားမှာ လေးကန်နေ၏၊ ခန္ဓာကိုယ်ကြီးကို သယ်ရသည်မှာပင် အလွန်လေးလံနေပုံရသည်၊ ထို့ကြောင့် ထိုနေ့က စင်္ကြံကျောင်းပေါ်တွင် အပန်းဖြေရန် ချထားသော သစ်သားတန်းလျားခုံကလေးပေါ်မှာ ခန္ဓာကိုယ်ကြီးကို ပစ်ချ လဲလျောင်းတော့သည်၊ ဆရာတော်ကြီးက အမိန့်ရှိ၏။

"ဘုန်းကြီးက ကိုယ်တော်တို့နှင့် သိပ်နေချင်တော့တာ မဟုတ်ဘူး၊ ရှုပ်ရှုပ်ထွေးထွေး အာရုံတွေကိုလဲ မကြည့်ချင်တော့ဘူး၊ တစ်ပါးတည်း နေချင်တော့တယ်၊ စိတ်တွေက အဲလို ဖြစ်လာတယ်၊ သေရမှာလဲ မကြောက်ပါဘူး၊ ဘာလို့လဲဆိုတော့ ဘုန်းကြီးမှာ ဒါနတွေ ပြုထားတယ်၊ သီလတွေလဲ ဖြူစင်အောင် ကျင့်ထားတယ်၊ ပညာပါရမီတွေလဲ အများကြီး ပြုလုပ်ထားတယ်၊ ဒါတွေဟာ လုံလောက်တဲ့ အားကိုးစရာတွေဆိုတာ ဘုန်းကြီး ယုံကြည်ထားတယ်၊ အခုဘာကိုမှ မမက်မောဘူး၊ ဘာကိုမှလဲ မတွယ်တာဘူး၊

အများနှင့် အတူနေမရအောင် ငြီးငွေ့နေတော့တာပဲ"ဟူ၍ ဦးဝဏ္ဏိတအား မိန့်ကြားသည်။

"အများနှင့် အတူနေမရအောင် ငြီးငွေ့နေတော့တာပဲ"ဆိုတာ ရှေ့ပြေးနိမိတ်များပေလောဟု တွေးတောနေကြရတော့၏။ စောစောပိုင်းက ဤစကားမျိုးကို ရံဖန်ရံခါသာ အမိန့်ရှိတတ်၏၊ ယခု ခဏခဏ မိန့်မြွက်လာသည်။

* တာဝတိံသာနတ်တို့ စုတေခါနီးတွင် ...

(၁)ပန်ဆင်ထားသော ပန်းများ အမြဲတမ်းလန်းဆန်းနေရာမှ ညှိုးနွမ်းလာခြင်း၊

(၂)ကိုယ်ဝတ်တန်ဆာများ ညစ်နွမ်းလာခြင်း၊

(၃)အရေအဆင်း ဝါဝင်းစိုပြည်နေရာမှ ခြောက်သွေ့သွေ့ ဖြစ်လာခြင်း၊

(၄)ခန္ဓာကိုယ်မှ ချွေးများ ထွက်လာခြင်း၊

(၅)"သကေ ဒေဝေါ ဒေဝါသနေ နာဘိရမတိ" ကိုယ့်ဘုံဗိမာန်မှာ မပျော်ပိုက်တော့ခြင်း ဟူ၍ နိမိတ်လက္ခဏာ ၅ မျိုး ရှေးဦးစွာ ထင်လာတတ်ကြောင်း ဣတိဝုတ်ပါဠိတော် (ပဉ္စပုဗ္ဗနိမိတ္တသုတ်)၌ ဟောတော်မူထား၏၊ ထိုအဋ္ဌကထာကမူ "နတ်မဟုတ်ငြားလည်း အလားတူပင် ဘုန်းရှင် ကံရှင် ပါရမီရှင်တို့လည်း စုတေခါနီးတွင် ဤသို့သဘောနှင့်နှင့် ရှေ့ပြေးနိမိတ်များ ထင်လာတတ်၏"ဟု ဖွင့်ဆိုထားသည်။

ယခု ဆရာတော်က သန့်ရှင်းတိတ်ဆိတ်လှသည့် ကိုယ့်ကျောင်းကလေးပေါ်မှာပင် ကိုယ်မပျော်ပိုက်တော့သလို ဖြစ်လာလေရာ "ကိုယ့်ဘုံဗိမာန်မှာ မပျော်ပိုက်တော့ခြင်း"ဟူသော **(သကေ အာသနေ နာဘိရမတိ)** သဘောမျိုးများ ဖြစ်နေရော့သလားဟု ထင်မှားနေကြရတော့၏။

## ဘုန်းကြီးကတော့ သေဖို့ ပြင်ထားတယ်

မဟာဂန္ဓာရုံ၌ နိုင်ငံခြားသား ဧည့်သည်များလာ၍ ဆရာတော့်ထံမှာ ချဉ်းကပ် ပြဿနာမေးချင်သည်ဆိုလျှင် (စကားပြန်တာဝန်) အမြဲဆောင်ရွက်ရသော (လေးမျက်နှာမှ) ဦးကုဏ္ဍလ တစ်ပါးရှိသည်၊ ဒုလ္လဘရဟန်း ဖြစ်၏၊ ဒုလ္လဘအဖြစ် ၉ ကြိမ်ဝတ်ဖူးရာမှ မထွက်တော့ဘဲ သင်္ဂါတရား ခိုင်မြဲနေခြင်း ဖြစ်သည်။

ပိဋကတ်ကျမ်းစာတို့ကို လေ့လာရန် မဟာဂန္ဓာရုံဆရာတော်ကြီး၏ နည်းနာ နိဿယကို ခံယူရန် အမရပူရ မဟာဂန္ဓာရုံသို့ ရောက်လာခြင်း ဖြစ်၏၊ သူ့ မူလပင်ရင်း ဆရာတော်တို့မှာ ဝိနည်းကို အလွန်လေးစားကြသော ဒွါရဆရာတော်များ ဖြစ်ကြသည်၊ ထို့ကြောင့် ထိုဒွါရဆရာတော်ကြီးများ၏ အကြောင်းကို သိလိုသောအခါ ဆရာတော်က မကြာ မကြာ ခေါ်၍ ခေါ်၍ မေးတတ်သည်၊ ယခု တစ်လော ပို၍ မေးနေပြန်၏၊ ရန်ကုန်မြို့ စမ်းချောင်း မဟာရာဇိကာရုံ (အဂ္ဂမဟာပဏ္ဍိတ) ဆရာတော် ပျံလွန်တော်မူပုံကို မေးသည်၊ လေးမျက်နှာ ဦးကုဏ္ဍလက လျှောက်ထားရ၏။ ...

"မဟာရာဇိကာရုံဆရာတော်ကြီးဟာ မနက်ပိုင်းမှာ သံဃာများကို စာချပါသေးတယ်ဘုရား၊ စာဝါပြီးတော့ ကျောင်းထဲမှာ တံမြက်လှည်းပါတယ်၊ ပြီးတော့ ရေချိုး, အဲဒီနောက် ဆွမ်းစားချိန် ရောက်လာလို့ ဆွမ်းစားပါတယ်၊ ဆွမ်းစားအပြီး ထုံးစံအတိုင်း နေ့သန့်စင်တဲ့ အနေမျိုးနှင့် အိပ်ယာထဲမှာ ခေတ္တ လဲလျောင်းပါတယ်၊ အဲဒီကတည်းက ပြန်ထမလာတော့ပါဘုရား"။

ထို့နောက် ... "ဟသ်ာတ (အဂ္ဂမဟာပဏ္ဍိတ) သပြေပင်ဆရာတော်ဘုရားကြီးကော ဘယ်လို ပျံလွန်တော်မူတာလဲ"ဟု မေး၏၊ ပျံလွန်တော်မူပုံကို လျှောက်ထားရသည်။

နောက်တစ်ရက် ခေါ်မေးပြန်၏၊ ကြားဖူးပြီးဖြစ်လျက် ထပ်ကာ ထပ်ကာ မေးနေသည်၊ အဘယ်ရည်ရွယ်ချက်ဖြင့် မေးသည်ဟုကား မသိနိုင်ပါ။

မဟာဂန္ဓာရုံဆရာတော်သည် ထိုဒွါရဆရာတော်ကြီး နှစ်ပါးလုံးနှင့် ရင်းနှီး ကျွမ်းဝင်သည် ဟူ၍။

---

* ဣတိဝုတ်ပါဠိတော် – ၂၅၃၊ အဋ္ဌကထာ – ၂၄၄။

## မမြဲဘူးဆိုတာ အမြဲ ပြော၍လာ

ယခုရက်ပိုင်း နံနက်စောစော ဩဝါဒများ၌ ... "ဦးပဉ္စင်းတို့ ကိုရင်တို့ ဝိနည်းကို လေးစားကြ, သီလ မညှိုးနွမ်းကြစေနှင့်, စင်ကြယ်အောင် နေကြ, သီလ မစင်ကြယ်ရင် တမလွန်ဘဝအတွက် ဆရာသမားတွေကလဲ မကယ်နိုင်ဘူး၊ အောင်ထားတဲ့ စာမေးပွဲတွေကလဲ မကယ်နိုင်ဘူး၊ ရထားတဲ့ ဂုဏ်ထူးတွေ, အကျော်အစောတွေကလဲ မကယ်နိုင်ဘူး၊ ဘဝကောင်း ရဖို့ကတော့ သီလပဲ၊ ကိုယ်ကျင့်သီလဖြူစင်မှ ဘဝကောင်း ရနိုင်တယ်ဆိုတာ မှတ်ပါ။

ကိုယ်ကျင့်သီလ ဖြူစင်နေရင် သေရမှာ ကြောက်ဖို့ မလိုတော့ဘူး၊ သေခါနီး မကြောက်ရအောင် ခုနှယ်က ပြင်ထားကြ၊ ဘုန်းကြီးကတော့ ပြင်နေတယ်၊ သေရမှာ မကြောက်ရအောင် အသင့်ပြင်ထားတယ်။

ဒီခန္ဓာကိုယ်ကြီးဟာ မနေဘူး၊ တစ်နေ့ ပျက်စီးရမှာ၊ မမြဲဘူး၊ အားလုံး ပျက်စီးရမှာပဲ၊ ဖြစ်လာတာဟာ ပျက်စီးဖို့ပဲ"ဟူ၍ ယခုတစ်လောတွင် မကြာခဏ မမြဲသည်ကိုပင် အမြဲလိုလို ပြော၍လာတော်မူ၏။

## သုတ်မဟာဝါ ရေးသားပို့ချပြီးစီး

နေ့မှန် ရက်မှန် အချိန်မှန်ဖြင့် ပို့ချရေးသားလာခဲ့သော ဒီဃနိကာယ်လာ သုတ်မဟာဝါ အဋ္ဌကထာကား ပြီးတော့မည်၊ မှတ်သားဖွယ် လိုက်နာဖွယ် သံဝေဂယူဖွယ်တို့လည်း အပြည့်ပါ၏၊ ယင်းအချက်တို့ကို တွေ့တိုင်း ဆရာတော်က စာလိုက်သံဃာတို့အား ထောက်ပြ၏၊ ကောက်ချက်ချပြ၏၊ အထူးမှတ်သားဖို့ သတိပေးတော်မူတတ်သည်။

တစ်နေ့ရာတွင်ကား "**သဗ္ဗေဟေဝ ပိယေဟိ မနာပေဟိ နာနာဘာဝေါ ဝိနာဘာဝေါ အညထာဘာဝေါ**= ချစ်မြတ်နိုးအပ်သော အလုံးစုံသော သတ္တဝါ သင်္ခါရတို့နှင့် တစ်နေ့နေ့တွင် သေကွဲ ရှင်ကွဲ ကွဲကြရမည်"။

"**တံ ကုတေတ္ထ အာနန္ဒ လဗ္ဘာ**=အဲဒီဟာတွေ မဖြစ်ပါစေနှင့်လို့ ဘယ်တောင့်တလို့ရမလဲ အာနန္ဒာ" တဲ့၊ မြတ်စွာဘုရား မိန့်မြွက်သော ဤအချက်ကို ထောက်ပြတော်မူသည်။

ထို့ပြင်လည်း ဆက်လျက် "**ယံ တံ ဇာတံ ဘူတံ သံခတံ ပလောကဓမ္မံ၊ တံ ဝတ မာ ပလုဇ္ဇီတိ နေတံ ဌာနံ ဝိဇ္ဇတိ**=အသစ်ဖြစ်ပေါ်လာခြင်း, ထင်ရှားဖြစ်ပေါ်လာခြင်းနှင့် ပြုပြင်ပေးရခြင်းသဘော ရှိ၍ ပျက်စီးရခြင်းသဘောရှိသော ဓမ္မအားလုံးကို "မပျက်စီးပါစေနှင့်"လို့ တောင့်တ၍ ရရိုးထုံးစံ မရှိခဲ့ပေ။"

ဤအချက်ကိုလည်း စာလိုက်တပည့်တို့အား ထောက်ပြနေသည်၊ ဤသို့ဖြင့် မှန်မှန်ပို့ချလာခဲ့ရာ ၁၃၃၉ ခု နတ်တော်လဆန်း ၁၃ ရက်နေ့ နေ့လယ်တွင်ကား လုံးဝပြီးစီး အောင်မြင်ခြင်းသို့ ရောက်ခဲ့လေသည်။

ဤကဲ့သို့ ကျမ်းစာတစ်ဆူ ချပို့ရေးသားပြီးစီးတိုင်း ဆရာတော်က "ကောင်းမြတ်သော ဤကြိုးစားမှုများဖြင့် ဗုဒ္ဓမြတ်စွာအား ပူဇော်ပါ၏"ဟု ပူဇော်လေ့ရှိ၏၊ ပြီးမှ "ဤကုသိုလ်များ၏ အဖို့ဘာဂကို အမိ အဖ ဆရာသမား အစထား၍ အားလုံးသော သတ္တဝါတို့အား အမျှပေးဝေပါ၏"ဟု အမျှဝေနေကျ ဖြစ်၏။

ယနေ့လည်း ထုံးစံအတိုင်း ရွှန်းရွှန်းမြမြဖြင့် ကျကျနန ပူဇော်၍ အမျှပါ ဝေတော်မူလိုက်ပါလေပြီ။

## ပင်ပန်းလွန်း၍ နှစ်ရက်နားကြစို့

ဤသို့ ကျမ်းစာတစ်စောင် ပြီးပါက ခါတိုင်းဆိုလျှင် နောက်တစ်နေ့ နောက်တစ်ကျမ်း တန်းပြီးဆက်လက် ပို့ချတော်မူမြဲ ဖြစ်သည်၊ ယနေ့ကား ဆရာတော်က ဤသို့ အမိန့်ရှိနေ၏၊... "နက်ဖြန် နတ်တော်လဆန်း ၁၄ ရက် အဖိတ်နေ့မို့ နေ့တစ်ဝက် နားရမှာ၊ သန်ဘက်ခါကျတော့ ၁၅ ရက် ဥပုသ်နေ့မို့ တစ်နေ့လုံး နားရမှာ၊ ဒါကြောင့် ဒီကြား ၂ ရက်ကိုတော့ လုံးလုံးအနားယူကြစို့၊ ဥပုသ်အထွက် လပြည့်ကျော် ၁ ရက်နေ့ကျမှ "သုတ်ပါထေယျ" ဆက်ပြီး ပို့ချမယ်"ဟူ၍ မိန့်လိုက်သည်။

ဆရာတော်ကား တစ်ဘဝလုံး အလုပ်လုပ်၍ လာခဲ့ရသည်မှာ ပင်ပန်းလှချေပြီ၊ ယခု သက်တော်

၇၈ နှစ် ပြည့်လုပြီ၊ သို့သော် မနားနိုင်သေး၊ ပိဋကတ် သုံးပုံမှ သင်ရိုးအဋ္ဌကထာများကို ဖွင့်ဆိုရေးသားလာ ခဲ့ရာ အားလုံးကုန်ပြီဟု ဆိုရလောက်အောင် အခြေ အနေသို့ ရောက်လာခဲ့၏၊ အဘိဓမ္မာ ၇ ကျမ်းအဖွင့် အကုန်လုံး ဖွင့်ဆိုပြီးပြီ၊ ဝိနည်း ၅ ကျမ်းအဖွင့်လည်း ပြီးပြီ၊ သုတ် ၃ ကျမ်းတွင် ၂ ကျမ်းပြီးပြီ၊ ယခု သုတ် ပါထေယျ တစ်ကျမ်းသာ ကပ်၍ ကျန်တော့သည်။

အရှင်မဟာဗုဒ္ဓဃောသက သီဟိုဠ်ဘာသာဖြင့် တည်ရှိခဲ့သော ပိဋကတ် ၃ ပုံ၏ အဖွင့် အဋ္ဌကထာ တို့ကို မာဂဓဘာသာ (ပါဠိ)သို့ ပြောင်း၍ အဖွင့်ရေး သားခဲ့သလို ဆရာတော် အရှင်ဇနကာဘိဝံသက မာဂဓပါဠိဘာသာမှ တိုင်းရင်း မြန်မာဘာသာသို့ ပြောင်း၍ (မြန်မာနိုင်ငံနှင့် လိုက်လျောအောင်) အဖွင့်များ ရေးသားသည်။

ထို့ကြောင့် ဆရာတော် အရှင်ဇနကာဘိဝံသ သည် ဤနည်းအားဖြင့် အရှင်မဟာဗုဒ္ဓဃောသနှင့် ရည်ရွယ်ချက်ချင်း၊ စိတ်ထားချင်း၊ ဆောင်ရွက်မှုချင်း တူ၍ သွားလေ၏၊ ဆရာတော်ကား ဤလူ့ပြည်သို့ မြန်မာပြည်သာသနာတော်အတွက် တာဝန်တစ်ရပ် နှင့် လာခဲ့ရသူကဲ့သို့ ဖြစ်တော့သည်။

## အသက်ရှင်နေသမျှ အလုပ်လုပ်နေရမှာပဲ

ဆရာတော်သည် ကျမ်းစာတစ်ဆူပြီး၍ ကြည်နူး နေတော်မူဟန်ရှိ၏၊ စိတ်ရွှင်လန်းသဖြင့် ခန္ဓာကိုယ် လည်း လန်းကာ ပေါ့ပါးသွက်လက်သလို ဖြစ်နေပါ လိမ့်မည်၊ နတ်တော်လဆန်း ၁၄ ရက်နေ့က "ဘူးသီး ကြော် ဘုဉ်းပေးချင်တယ်"ဟု အမိန့်ရှိသဖြင့် ဆွမ်း ချက် ပြုစုနေသော ဒါယိကာမကြီး ဒေါ်ရှမ်းက နေ့ဆွမ်းမှာ ဘူးသီးကြော်ဖြင့် ကပ်လိုက်၏။

ဘူးသီးကြော်နှင့် ဆွမ်းကို တော်တော်များများ ဘုဉ်းပေးသည် ဟူပါ၏၊ သက်သတ်လွတ် ဘုဉ်းပေး နေသော ဆရာတော်ဖြစ်၍ ဤဘူးသီးကြော်သည် ပင် မွန်မြတ်သော အာဟာရဟု ဆိုရပေမည်၊ တစ် နေ့လုံး နေထိုင်ကောင်းသည့် အသွင်ပင် ရှိနေသည်။

နောက်တစ်နေ့ နတ်တော်လပြည့်နေ့ နံနက် စောစောတွင် ထုံးစံအတိုင်း ဆန်ပြုတ်၊ နံနက် ၈ နာရီတွင် သစ်သီး၊ ၁၀ နာရီခွဲတွင် ဆွမ်းဘုဉ်းပေး တော်မူသည်၊ လပြည့်နေ့ကား ဝန်းကျင်တစ်ခုလုံး အုံ့ဆိုင်း အေးစိမ့်နေသည်၊ ခြုံထည် အပိုသက်န်းဖြင့် ထွေးထားရသည်၊ အကြောင်းကား မိုးစွေနေသော ကြောင့် ဖြစ်၏။

ညနေပိုင်း၌ ခါတိုင်းဆိုလျှင် ဖျော်ရည်ဘုဉ်းပေး နေကျ ဖြစ်သည်၊ ယနေ့ ချမ်းစိမ့်စိမ့်နေသဖြင့် "ထန်း လျက်ရည်ပူပူ ဘုဉ်းပေးချင်သည်"ဟု အမိန့်ရှိ၏၊ ထို့ကြောင့် ဒကာမကြီး ဒေါ်ရှမ်းက ထန်းလျက်ရည် ကျိုကပ်ရသည်၊ အတော်အတန် နွေးသွား၏။

နတ်တော်လပြည့်နေ့ ညနေ ၃ နာရီခွဲအချိန်တွင် မဟာဂန္ဓာရုံ၏ ပုံမှန်ထုံးစံအတိုင်း "သံဃာ့ဥပုသ်"ပြု ဖို့ရန် ကြေးဝိုင်းကြီးထိုးလိုက်သည်၊ ဆရာတော်လည်း ကြွလာ၏၊ ပွဲကုန်းသိမ်ကြီးပေါ်မှာ သံဃာတော်များ နှင့်တကွ အတူစုဝေး၍ ဥပုသ်ပြုကြသည်၊ ဥဒ္ဒေသ ၅ ခုလုံး ပြနေကျ ဖြစ်၍ တစ်နာရီခန့်မျှ ကြာသည်၊ ထိုနေ့ ညနေက ဥပုသ်ပြု၍ ပြီးခါနီးတွင် ဆရာတော် ၏ ကျန်းမာရေးကို စစ်ဆေးရန် ညနေပိုင်းတစ် ခေါက်အနေဖြင့် ဒေါက်တာညိုညို၏ ကားကလေး ဝင်လာသည်၊ ဟွန်းသံကြားလိုက်ရ၏၊ ဟွန်းသံကြား လိုက်ရရုံမျှဖြင့် ဒေါက်တာညိုညို၏ ကားကလေးမှန်း သိနိုင်သည်၊ ဥပုသ်ပြု အပြီးတွင် ဆရာတော်က အမိန့်ရှိ၏။

"ယခုလာတဲ့ ဒေါက်တာက ဘုန်းကြီးအတွက် ကျန်းမာရေးစစ်ဆေးဖို့ လာတာ၊ ဒါကို သူက စောင့် နေရလို့ မတော်ဘူး"ဟု အမိန့်ရှိကာ စမ်းသပ်ခံရန် ကြွသွားတော်မူသည်။

နောက်မှ သတင်းကြားရပါ၏၊ "သူ့ကျောင်း ကလေးသို့ ရောက်သွားသောအခါ မောနေတော့ သည်"ဆို၏၊ လမ်းမှာ ခပ်သွက်သွက်ကလေး ကြွ သွားလိုက်ဟန် တူသည်၊ ဤသို့ပင်လျှင် ဆရာတော် ညာဉ်ကား ရှိတတ်၏၊ တစ်ဖက်သားအပေါ် အလွန် ငဲ့တတ်လွန်းသောကြောင့် ကိုယ့်ကျန်းမာရေးကို ဂရုမစိုက်မိဘဲ ဖြစ် ဖြစ် သွားတတ်ခဲ့ဖူးသည်။

## သူ့အခြေအနေကို သူ့ဘာသာသူ သိခဲ့

ညနေ ၅ နာရီခန့်လောက်တွင် ဒေါက်တာညိုညို က ပြဒါးတိုင်ဖြင့် တိုင်းကြည့်သောအခါ အဖျားဒီဂရီမှာ ၉၉ ကျော်နေပြီ၊ သို့သော် ဆရာတော်ကမူ "နေကောင်းသည်"ဟု ပြောချင်၏၊ သို့မှ နောက်တစ်နေ့ စာချရမည် မဟုတ်ပါလော၊ ဒေါက်တာက "ယခုရက်ပိုင်းအတွင်း စာဝါများ မချသေးဘဲ အနားယူနေဖို့ သင့်ပါသည်"ဟု လျှောက်ထားရာ...

"အသက်ရှင်နေသမျှတော့ အလုပ်လုပ်ပြီး နေရမှာပဲ၊ အလုပ်မလုပ်နိုင်တဲ့ ခန္ဓာကိုယ်ကြီးနဲ့တော့လဲ လူ့ပြည်မှာ တစ်ရက်ကလေးတောင် မနေချင်ပါဘူး၊ အလုပ်မလုပ်နိုင်တော့ဘူးဆိုရင်လဲ သေပြီးပဲ အနားယူတော့မယ်"ဟု သူပြောနေကျ လက်သုံးစကားအတိုင်း ပြောပါတော့၏။

လပြည့်နေ့ညတွင်ကား ဆရာတော်၏ ကျန်းမာရေး ချွတ်ယွင်းမှုကို ကူညီရန်အတွက် အနားတွင် စောင့်၍ အိပ်ကြရန် သံဃာကြီးများ၏ စီစဉ် ပေးချက်အရ ဆေးကျောင်း ဦးသုစိတ္တနှင့် ဘုရားတိုက် ဦးသုနန္ဒတို့က အိပ်ရာခေါင်းအုံးတို့ဖြင့် ဆရာတော့်ကျောင်းကလေးပေါ် သို့ တက်သွားကြ၏။

"ဘာလဲဟေ့"ဟု မေးသဖြင့် "ဆရာတော့်အနားတွင် စောင့်၍ အိပ်ကြမလို့ပါဘုရား"ဟု လျှောက်ထားကြရာ "ဘုန်းကြီး နေကောင်းပါတယ်၊ ကိစ္စမရှိပါဘူး၊ ဘုရားလက်ထက်က ရှေးသူတော်ကောင်းကြီးတွေ ဘယ်မှာ အစောင့်ရှိလိမ့်မလဲကွာ၊ တောထဲမှာ တစ်ပါးတည်း ကိုယ့်တရားနဲ့ကိုယ် နေကြတာပဲ"ဟု ဆိုသဖြင့် ပြန်၍ လာခဲ့ကြရသည်။

သို့သော် ဆရာတော်ကား ပြောမည့်သာ ပြောနေသည်၊ သူ့အခြေအနေ သူသိပါ၏၊ "နီးကပ်လာပြီ" ဆိုသည်ကို သူသိပါ၏။

ထို့ကြောင့် လပြည့်နေ့ညတွင် သူ့အိပ်ရာခုတင်ပေါ်၌ တရားထိုင်နေသည်မှာ ည ၂ နာရီသို့ ရောက်သွားပါသည်။

မည်သည့် အချိန်ကစ၍ ထိုင်နေသည် မသိ၊ အိပ်ရာနေရာ ပြင်ပေးနေကျ ကိုရင်တို့လည်း စောင့်နေခဲ့ရသည်မှာ ကြာပြီ၊ ဆရာတော် အိပ်ရေးမဝမည်စိုး၍ "ဆရာတော်ဘုရား... ည ၂ နာရီ ရှိပါပြီဘုရား"ဟူ၍ လျှောက်ကြတော့မှ "ဒါဖြင့် နေရာပြင်"ဟု အမိန့်ရှိပါတော့သတတ်။

ကိုရင်တို့လည်း အိပ်ရာ နေရာကို ပြင်ပေးခဲ့ပြီး ကိုယ့်ကျောင်းကိုယ် ပြန်လာအိပ်ကြတော့၏၊ နံနက်စောစော ၄ နာရီ တုံးကြီးခေါက်ချိန်တွင် အခြေအနေကို သိလို၍ သွားရောက် ချောင်းမြောင်းကြည့်ရှုကြရာ ဆရာတော်မှာ သူ့ခုတင်ပေါ်တွင် ငုတ်တုတ်ကြီး တရားထိုင်လျက်ပင် တွေ့ကြရပြန်သည်ဟူ၏။

ညပိုင်းမှာ "ကျိန်းစက်သေးသလား၊ မကျိန်းစက်ဘူးလား" မသိနိုင်ပါတော့ချေ၊ အနှောင့်အယှက် ပေးသည် ထင်မည်စိုး၍ ဘာမျှ မလျှောက်ဘဲ ပြန်လာခဲ့ကြရတော့သည်။

## မလျှော့သောဇွဲ ခိုင်မြဲသော စိတ်ဓာတ်
### သုတ်ပါထေယျ စတင် ချပို့သည့်နေ့

၁၃၃၉ ခု နတ်တော်လပြည့်ကျော် ၁ ရက်နေ့က ဖြစ်သည်၊ ထုံးစံအတိုင်း နံနက်ပိုင်းတွင် ဩဝါဒပေး၏၊ နေ့လည် ၁၂ နာရီတွင် ခေါက်နေကျ စာတက်တုံးကလေး၏ အသံက ပဲ့တင်ထပ်၍ လွင့်ပျံ့လာသည်၊ ကျောင်းတိုက်အတွင်း လွှမ်းသွား၏၊ ဆရာတော်သည် မည်သည့်အချိန်က ကြွလာသည် မသိ၊ စာချမည့် ဉာဏ်သန်းကျောင်း အပေါ်ထပ်သို့ ရောက်နေနှင့်ပြီ၊ ခါတိုင်း စာချသည်မှာ အောက်ထပ်တွင်ဖြစ်၏၊ ယခုရက်ပိုင်း၌ အေးစိမ့်နေ၍ အပေါ်ထပ်တွင် စာချခန်း ပြင်ရန် ဆရာတော်ကပင် အမိန့်ရှိထားသည်၊ စာသင်သားတို့သည် စားပွဲအနိမ့်ကလေးများကိုယ်စီဖြင့် ကြမ်းပေါ်မှာဖင်ချထိုင်၍ ငုတ်တုတ် စာတက်ကြရ၏၊ ယခုစာချတိုက်မှ စာဆိုမည့် ဦးဝိလာသနှင့် စာရေးမည့် ဦးဇနိန္ဒတို့လည်း အသင့်ရောက်နေကြပြီ၊ စာလိုက်သံဃာများလည်း စုံနေကြပြီ။

"ကဲ... ဆို"

ဆရာတော်၏ပေးနေကျ အမိန့်သံက တိတ်ဆိတ်ငြိမ်သက်နေသော သံဃာ့ပရိသတ်ကို ထိုးဖောက်

ထွက်ပေါ်လာပါသည်၊ ထိုအမိန့်အရ စာဆို ကိုယ်တော် က "နမော တဿ"မှ စ၍ သုတ်ပါထေယျ အဋ္ဌကထာကို ဆိုရတော့၏။

နေ့တစ်နာရီအချိန်တွင် ထိုနေ့အတွက် ရပ်နားလိုက်သည်၊ "ဒီနေ့ နောက်စာဝါ (ပါရာဇိကဏ်ပါဠိတော်စာဝါ) ကိုတော့ မချတော့ဘူး၊ ဘုန်းကြီး ကျန်းမာရေး အကောင်း နည်းနေတယ်"ဟူ၍ ပိတ်လိုက်၏၊ စာချပြီး ပြန်သွားသောအခါ သူ့ကျောင်းကလေးပေါ်မှာ ပင်ပန်းနွမ်းနယ်နေဟန် ရှိသည်၊ အားနည်းနေပုံရ၏။

## သံမဏိစိတ်ဓာတ်ကို မည်သူမျှ ချေမွ၍မရ

ရာသီဥတုကလည်း ယမန်နေ့ကစ၍ မိုးစွေလာခဲ့သဖြင့် အေးစိမ့်စိမ့် ဖြစ်နေသည်၊ ဆေးပညာရှင် မြန်မာသမားတော်ကြီးများကဆိုလျှင် "ဤပတ်ဝန်းကျင် ရက်များဟာ ယမဒါဋ္ဌာရက် (ယမမင်းအစွယ်ထွက်တဲ့ရက်)များ"လို့တောင် ပြောတတ်ကြပါသတဲ့၊ "သက်ရွယ်ကြီးရင့်တဲ့သူတွေ ကျန်းမာရေး ဂရုစိုက်ကြ"လို့ သတိပေးတတ်ကြပါသတတ်။

မကြာခင် စမ်းသပ်စစ်ဆေးပေးနေကျ သမားတော်ကြီး ဒေါက်တာ ဦးထွန်းသင်တို့ ရောက်လာကြ၏၊ အမရပူရမြို့နယ် ပြည်သူ့ဆေးရုံအုပ် ဒေါက်တာ ဦးကံရွှင်နှင့် အခြားဆရာဝန် နှစ်ဦးတို့လည်း ပါလာသည်၊ ဆရာတော်၏ ကျန်းမာရေးအခြေအနေကို ကြည့်ရှုစစ်ဆေး၍ သင့်တော်မည့် ဆေးတို့ကို ဆက်ကပ်ကာ ဆရာတော်၏ ကျောင်းကလေးပေါ်မှ ပြန်ဆင်းလာကြသည်၊ ကျောင်းအောက်တွင် ရဟန်းတပည့်ကြီးတွေက စောင့်နေ၍ ဆရာဝန်ကြီးကို ဝိုင်းဝန်းပြော ကြ၏။ "ဆရာတော်ကို လျှောက်ပေးပါဦး၊ အခုလို ကျန်းမာရေးနည်းနေတဲ့အချိန်မှာ နံနက်ဩဝါဒမပေးဖို့နဲ့ နေ့လယ်စာဝါများ နားထားဖို့ ဒေါက်တာ လျှောက်ရင်တော့ ရနိုင်လောက်ပါတယ်" ဤသို့ ဝိုင်းဝန်းတောင်းပန်ချက်အရ ဆရာဝန်ကြီးလည်း ကျောင်းကလေးပေါ် ပြန်တက်သွားပြီး "အခုလို ကျန်းမာရေးနည်းနေတုန်း ၃ ရက်လောက် အနားယူပါ၊ ဩဝါဒပေးခြင်း၊ စာချခြင်းတို့ကို နားထားစေချင်ပါတယ်ဘုရား"ဟု လျှောက်ထားရာ ဆရာတော်က ဘာမှ ပြန်မပြောဘဲ ပြုံးနေတော်မူသည်၊ သူ့အပြုံးကား အဓိပ္ပာယ်ရှိလှပါ၏၊ အပြုံး၏ နောက်ကွယ်တွင် မမြင်စကောင်းသော အင်အားတွေ ရှိနေသည်။

"စာကတော့ ချမှာပဲ၊ အသက်ရှိနေသမျှ အလုပ်ကတော့ လုပ်နေရမှာပဲ"ဟူသော အပြုံးမျိုး ဖြစ်၏၊ ဆရာတော်၏ စကားလုံးတို့သည်ကား အပြင်သို့ ထွက်မလာပါ၊ ရင်ထဲ နှလုံးထဲမှာပင် ကိန်းအောင်းနေခဲ့၏၊ စကားလုံးတို့အစား အပြုံးက အပြင်သို့ လက္ခဏာအဖြစ် ပေါ်လာခြင်းသာ ဖြစ်ပါသည်။

## အရေးကြီးလာလျှင် အိပ်ဖို့ အချိန်ဆိုတာ မရှိ

### သာသနာတော်ကို အထင်သေးခံရမှာ စိုး

ထိုနေ့က အအေးဓာတ် လွန်ကဲသဖြင့် ချမ်းစိမ့်နေသည်၊ ယောဂီ ဒါယိကာမကြီး ဒေါ်စုစု က လျှောက်ထားပါ၏၊ "အေးလှပါသည်ဘုရား၊ ဆရာတော်ရဲ့ ကျန်းမာရေးအတွက် အနွေးကိရိယာ တပ်ဆင်ပေးပါရစေ ဘုရား"ဟု လျှောက်ထားသည်၊ ထိုအခါ ဆရာတော်က ... "ရှေးက သူတော်ကောင်းကြီးတွေ တောထဲ တောင်ထဲမှာ ဘယ်သူက အနွေးကိရိယာ လိုက်ပြီး တပ်ဆင်ပေးလိမ့်မလဲ၊ ဒီလိုပဲ ရာသီဥတုဒဏ် သည်းခံပြီး ကိုယ့်တရားနဲ့ကိုယ် နေသွားကြတာ၊ ခွင့်ပြုလို့ မဖြစ်ဘူး၊ ဘုန်းကြီးတို့က ခွင့်ပြုလိုက်ရင် နာမည်ကြီးတဲ့သူတွေ လုပ်သမျှ နောက်က လိုက်အတုခိုးကုန်ကြရော၊ ဒီလိုနဲ့ သာသနာတော်ကြီး အပေါ် အထင်သေးခံနေရတာ၊ မဖြစ်ဘူး" ဟူ၍ ပယ်မြစ်တော့သည်။

ဆရာတော်၏ ကျန်းမာရေးကို စိတ်မချသဖြင့် ဒေါက်တာညှိညှိသည် နံနက်ပိုင်းက တစ်ကြိမ်၊ ယခုညနေ တစ်ကြိမ် လာ၍ စစ်ဆေး၏၊ သင့်တော်ရာ ဆေးတို့ကို ဆက်ကပ်၏၊ ဆရာတော်လည်း ကိုယ့်ကိုယ်ကို သိမည်သာ ဖြစ်သည်၊ ညပိုင်းတွင် စောင့်အိပ်မည်"ဟူ၍ (ယမန်နေ့ကလို) ကိုယ်တော် ၂ ပါး တက်သွားကြပြန်၏၊ "မလိုအပ်ဘူး"ဆို၍ ပြန်လာခဲ့ကြရပြန်သည်။

## အိပ်စက်ဖို့ အချိန်မပေးနိုင်

ရှေးတုန်းက ဆရာတော့်ထံ ဆရာဝန်များ ခပ်ကျဲကျဲ လာခဲ့ကြရာမှ ယခု ခပ်စိတ်စိတ် လာနေကြသည်ကို ထောက်၍ "အရေးကြီးလာပြီ" ဖြစ်ကြောင်းကို သံဃာကြီးများလည်း ခန့်မှန်းမိကြ၏၊ သို့သော် ဆရာတော်ကြီး၏ ဆုံးဖြတ်ချက်ကို မည်သူမျှ ပျက်အောင် မထိုးဖောက်နိုင်ကြပေ၊ လိုအပ်သမျှကို ပြုစုပေးနေရုံမျှသာ တတ်နိုင်ကြသည်။

ထိုနေ့ ညနေက ဒေါက်တာညိုညို အပြန်တွင် ပြုစုသူ ဦးပဥ္စင်း ကိုရင်များကို မှာထားခဲ့၏၊ "နက်ဖြန်မနက် စောစော အိပ်ရာ ထချိန်မှာ ပြဒါးတိုင်ဖြင့် အဖျားတိုင်းထားနှင့်ရန်" ဖြစ်သည်။'

ယနေ့ လပြည့်ကျော် ၁ ရက်နေ့ ညတွင်လည်း ဆရာတော်သည် သူ့အိပ်ရာထက်မှာပင် မည်သည့်အချိန်က စ၍ တရားထိုင်နေသည်မသိ၊ ငုတ်တုတ်ကြီး တင်ပျဉ်ခွေ၍ တရားထိုင်နေသည်၊ ည ၉ နာရီအချိန် အိပ်ရာပြင်ရန် ကိုရင်များ သွားကြသောအခါ တရားထိုင်နေသဖြင့် စောင့်နေကြရသည်။

၁၀ နာရီတွင်လည်း မပြီး၊ ၁၁ နာရီ ၁၂ နာရီအထိလည်း မထသေး၊ နာရီပြန် ၁ ချက် ၂ ချက် ရောက်သောအခါ တပည့်များက "ဆရာတော်ဘုရား၊ ည နာရီပြန် ၂ ချက် ရှိပါပြီ၊ ကျိန်းတော်မူပါဘုရား" ဟု လျှောက်ကြမှ တင်ပျဉ်ခွေ ဖျက်တော့သည်။

အိပ်ရာနေရာများ ပြင်ပေးပြီး ကိုယ့်ကျောင်းကိုယ် ပြန်သွားအိပ်ကြပြီးနောက် နံနက်စောစောတွင် စိတ်မချ၍ ၃ နာရီခွဲလောက်သွားပြီး ချောင်းမြောင်းကြည့်သောအခါ အိပ်ရာထက်တွင် ငုတ်တုတ်ကြီးပင် တရားထိုင်လျက် တွေ့ကြရပြန်သည်ဆို၏၊ ဆရာတော်ကား တစ်ညလုံး ကျိန်းစက်ဟန်မတူပေ၊ ဤသို့ဖြင့် ၄ နာရီထိုး တုံးကြီးခေါက်၊ ကိုယ်လက် သုတ်သင်၍ ထုံးစံအတိုင်း မဟာဂန္ဓာရုံ၏ နေ့စဉ် လုပ်ငန်းစက်ပတ် လည်ရန် တာစူကြပြန်လေသည်။

## နတ်တော်လပြည့်ကျော် ၂ ရက်နေ့
### အပြောနှင့်အပြော ညီအောင်လုပ်ပြသွား

နံနက် အရုဏ်တက်ပြီးသောအခါ ဒေါက်တာညိုညို၏ မှာထားချက်အရ... စာချဘုန်းကြီး ဦးကုဏ္ဍလာဘိဝံသက အဖျားတိုင်းရန် သွားရ၏၊ ထိုအခါ "ဒီနေ့ ဘုန်းကြီး နေကောင်းပါတယ်"ဟူ၍ပင် မိန့်လိုက်သေး၏၊ "မှန်ပါဘုရား၊ အဖျားတိုင်းကြည့်ဖို့တော့ လိုပါတယ်ဘုရား"ဟု လျှောက်မှ ပြဒါးတိုင်ကြီးကို ပါးစပ်မှာ တပ်ရင်း မတ်တတ်ရပ်လျက် သူ့ကျောင်းကလေးပေါ်မှနေ၍ အရှေ့ဘက်ကမ်းတွင် အရုဏ်ရောင်ဖြင့် ရေးရေးပေါ်နေသော ကျောက်တော်ကြီးဘုရားကို လှမ်းပြီး လုပ်အုပ်ချီနေတော့သည်၊ အဖျားဒီဂရီမှာ အတော်ကျဆင်းနေသဖြင့် နေကောင်းသက်သာနေသည်ဟုပင် ဆိုရပါမည်၊ ထို့ကြောင့် ဩဝါဒပေးချိန်ရောက်သောအခါ ဩဝါဒပေးရန် ကြွလာမည် ပြု၏၊ ဘေးက ဝိုင်းဝန်းတောင်းပန်လျှောက်ထားကြတော့မှ "အေး၊ ဒီနေ့တစ်ရက်တော့ ဩဝါဒပေးဖို့ နားမယ်၊ ဒါပေမယ့် နေ့လယ် ၁၂ နာရီ စာဝါကိုတော့ မနားဘူး" ဟူ၍ မိန့်တော့သည်၊ နေ့စာဝါအတွက် ခါတိုင်းလို ကြိုတင်ပြင်ဆင်မှုများ၊ ရေးသားမှုများ ပြုတော်မူထား၏။

နံနက် ၈ နာရီလောက်တွင် သစ်သီးဘုဉ်းပေး၍ ၁၀ နာရီလောက်မှာ နွားနို့နှင့် ကျိုထားသော ဆွမ်းပျော့ပျော့ (နွားနို့ဆွမ်း)ကို ဘုဉ်းပေးသည်၊ နောက်နာရီဝက်ခန့် ခြားပြီး ကွေကာအုပ် ကပ်ကြပြန်၏၊ သိပ်တော့ များများ မဘုဉ်းပေးနိုင်ပါ။

ထူးခြားသည်ကား ဆွမ်းဘုဉ်းပေးနေစဉ်က လက်တွေ တုန်နေသည်၊ ကွေကာအုပ် ဘုဉ်းပေးသောအခါမှာ ပါးစပ်တွေရော သက်န်းတွေပါ ပေပွပြီး စားပွဲခုံပေါ်မှာပါ ဖိတ်စင်ကုန်သည်ဟု ဆွမ်းကပ်သော ကိုရင်များက ပြော၍ သိရပါ၏၊ အလွန်အသန့်ကြိုက်သော ဆရာတော်မှာ ယခုအချိန်၌



"နက်ဖြန်လဲ မသေသေးရင် စာဝါတွေ ဆက်လက် ပို့ချရသေးတာပ"



နောက်ဆုံး စာဝါပို့ချရာ ညွန့်သန်းကျောင်းကြီး

ယခုကဲ့သို့ ဖြစ်လာရချေပြီ၊ ဆွမ်းဘုဉ်းပေးပြီး၍ ဆေးကပ်သောအခါ ကိုရင်များကို "ငါနေကောင်းတယ်" ဟုပင် အမိန့်ရှိပါသေးသတဲ့၊ စာမချဘဲ နေရမှာ စိုးရိမ်၍လော၊ နံနက် ၁၁ နာရီအချိန်တွင် ကန်တော့ရန်လာကြ သော ဒါယကာ ဒါယိကာမများတို့အား စကား အနည်းငယ် ပြောပြီး ပြန်လွှတ်လိုက်သည်၊ ယခုအချိန်မှာ အများနှင့်စကားပြောပြီး အချိန်ကုန်ဆုံးစေရန် လိုလားဟန် မတူတော့ပါ၊ အနားတွင် ပြုစုနေသော ဦးပဥ္စင်း ကိုရင်များကိုပင် "ကိစ္စရှိမှ ခေါ်မယ်"ဟု ပြောကာ ပြန်လွှတ်လိုက်သည်။

## စေတနာစွဲနှင့်ခန္ဓာကိုယ်၏လွန်ပွဲ

ယခုအခါတွင် ဆရာတော်က တိတ်ဆိတ်ငြိမ်းချမ်းမှုဟူသော (ဝိဝေက)ကို ရယူနေတော်မူလိုဟန် ရှိပါသည်၊ ထို့အပြင်လည်း တစ်ဖက်သားကို ငဲ့တတ်သော ဝါသနာညာဉ်က အမြဲရှိနေသဖြင့် သူ့အတွက် အများ မပင်ပန်းစေလို၊ ဤသဘောထားကား အမြဲရှိသော ဆရာတော်ဖြစ်၏။

ဤအထိ ငဲ့ညှာသည့် အနေဖြင့် ကျောင်းတိုက်မြောက်ဖျားက ဇရပ်ဝင်းတွင် ဥပုသ်ရက်ရှည်စောင့်နေကြသော ကျောင်းအမ ဒေါ်သန်းသန်းတို့နှင့်သား ဒုလ္လဘရဟန်း ရှိနေ၍ ဆွမ်း ပြုစုနေသော ကျောင်းအမတို့ကို လပြည့်ကျော် ၁ ရက်နေ့ကပင် မန္တလေးသို့ ပြန်လွှတ်နေပြီ၊ နီးစပ်ရာ ဒါယကာ ဒါယိကာမများလည်း အမိန့်ကို မလွန်ဆန်နိုင်၍ ပြန်ကြရသည်၊ မည်သည့်သဘောဖြင့် ပြန်လွှတ်သည်ဟုကား မသိရချေ။

ထိုနေ့ (လပြည့်ကျော် ၂ ရက်နေ့) နေ့လယ်စာဝါပို့ချမည် ဖြစ်၍ အနားယူသည့်အနေဖြင့် ခေတ္တ လဲလျောင်း ကျန်းစက်တော်မူ၏၊ "ယနေ့ စာချကျောင်းအောက်ထပ်တွင် စာချမည်"ဟု အမိန့်ရှိထားသည်၊ အပေါ်ထပ်တက်ရန် ဝန်လေး၍လော။

နေ့လည် ၁၂ နာရီထိုးရန် ၁၀ မိနစ်အလိုမှာကား စာတက်လာကြမည့် သံဃာများထက်(ထုံးစံအတိုင်း) အလျင်စောပြီးရောက်အောင် ပြုစုကြသည့် ဦးပဥ္စင်း ကိုရင်များဖြင့် ထိန်းပြီး စာချကျောင်းသို့ ကြွလာသည်။

ဆရာတော်၏ စိတ်စေတနာနှင့်ဇွဲလုံ့လတို့က ခန္ဓာကိုယ်ကြီးကို ဇွတ်ဆွဲခေါ်၍သာ ပါလာရသော်လည်း ခန္ဓာကိုယ်ကြီးက လိုက်ချင်ဟန် မတူပါ၊ ထို့အတူ ဆရာတော်၏ ခြေအစုံတို့ကလည်း လိုက်ချင်ကြဟန် မတူပါ၊ စာမချဖို့ရန် ပိတ်ပင်ကြသော ဆရာဝန်ကြီးများနှင့် တစ်သဘောတည်း ဖြစ်ဟန်တူပါသည်၊ ထို့ကြောင့်ပင် တစ်လမ်းလုံး "မလိုက်ချင်ဘူး, မလိုက်ချင်ဘူး"ဟူ၍ ပြောသယောင် ဆရာတော်၏ ခြေအစုံတို့က ရှပ်တိုက်လျက် နောက်ပြန်တုံ့ဆွဲ ဒရွတ်တွဲ၍ နေကြသည်။

သို့သော်လည်း ဆရာတော်က အားလုံးအပေါ် အနိုင်ယူလိုက်၏၊ "စာချကျောင်းသို့ မလိုက်မနေရ, လိုက်ခဲ့ကြရမည်"ဟု ဇွတ်ဆွဲရုန်းပြီး ခေါ်လာသည်၊ သို့နှင့် ခြေလက်အင်္ဂါ ကိုယ်ခန္ဓာကြီးတစ်ခုလုံး မလိုက်ချင် လိုက်ချင် လိုက်ပါလာကြရသည်၊ သို့ဖြစ်သည့်တိုင်အောင် စာချကျောင်းအောက်ထပ် ခန်းမသို့ အဝင်တွင် ခြေထောက်အစုံတို့က "မတက်ဘူး, မတက်ဘူး" လုပ်နေကြပြန်၏၊ မြှောက်မရ ကြွမရ ဖြစ်နေကြသည်။

ဤသည်တို့ကို မြင်ရသော အနီးမှ ကိုယ်တော်တစ်ပါးက ခပ်သွက်သွက် သွား၍ (ဆရာတော်ဘက်မှ ပါဝင်ကာ) ခြေထောက် အစုံတို့ကို ဆွဲချီ ပင့်မတင်လိုက်ရ၏၊ ထိုအခါမှသာ (အုတ် ၂ လွှာသာ အထူရှိသော) စာသင်ခန်းမပေါ်သို့ ချောမောစွာ ရောက်သွားတော့သည်။

## မသေသေးရင် ဆက်လက် ပို့ချမယ်

ယနေ့ စာချဖို့အတွက် အပေါ်ထပ်တက်ရန် ဝန်လေးမည်ဖြစ်၍ ဆရာတော်ကပင် အောက်ထပ်တွင် အပြင်ခိုင်းထား၏၊ ညွှန့်သန်းကျောင်း၏ အောက်ထပ်တွင် ဖြစ်သည်၊ ဆရာတော်၏ ခန္ဓာကိုယ်ကြီးကို ကိုယ်တော် ၂ ပါး တွဲ၍ ဝင်လာပြီး နောက် ကုလားထိုင်ပေါ်သို့ တင်ပေးလိုက်သောအခါ အနည်းငယ် မောနေသည်။

ထိုအချိန်မှာ ကျောင်း၏ အောက်ထပ် တောင်ဘက်ခြမ်းတွင် နေရောင်ခြည် အနည်းငယ် ဖျန်းလျက် ရှိသည်၊ ဆရာတော်၏ ကုလားထိုင်ကို

နေရောင်ခြည်ဖျန်းရာ တောင်ဘက်ပိုင်းတွင် ခင်းထား၏၊ သို့ဖြစ်၍ အတော်အတန် နွေးထွေးလာသည်၊ ဆရာတော်က စာလိုက်သံဃာများကို "ဒီနားတိုးကြ၊ ဒီနား တိုးကြ၊ ဒီနားက နေရောင်ခြည်ရတယ်၊ နေရောင်ခြည်ဆိုတာ သူ့နေရာနဲ့သူ, သူ့အချိန်အခါနဲ့သူ ကြည့်ပြီး အသုံးချရတယ်"ဟု မိန့်ကာ သူ့အနားသို့ အတိုးခိုင်း၏။

အားလုံး ဝိုင်းအုံတိုးလာကြသဖြင့် သူ့ခြေရင်းနားအထိ ရောက်ကုန်ကြသည်၊ စားပွဲခုံများလည်း အစီအစဉ်တကျ မဟုတ်ကြတော့၊ မညီမညာ ဖြစ်ကုန်ကြသည်၊ ဤအခြေအနေကို ခွင့်ပြုထား၏၊ ခါတိုင်းဆိုလျှင် အစီအစဉ်တကျ စနစ်တကျရှိမှ ကြိုက်တတ်သည်။

ထို့နောက် ဆရာတော်က စာလိုက်သံဃာများ၏ မျက်နှာတို့ကို တစ်ပါးချင်း တစ်ပါးချင်း လျှောက်ကြည့်နေပြီး "ဦးဣန္ဒွေ့ကြီးကော ပါရဲ့လား"ဟု (ယခု တိုက်တာ မဟာနာယကများတွင် အပါအဝင် ဖြစ်သော) ဦးဣန္ဒွေ့ဘာသာဘိဝံသကို ရည်ရွယ်ပြီး မေးတော်မူသည်။

ထိုအခါ "ဟိုဘက်အခန်းထဲမှာ ပါပါ အရှင်ဘုရား"ဟု တစ်ပါးက လျှောက်လိုက်မှ ကျေနပ်သွားပုံ ရသည်၊ ထို့နောက် အမိန့်ရှိပြန်သည်၊ "ဘုန်းကြီးကတော့ အသက်ရှင်နေသမျှတော့ စာချနေဦးမှာပဲ" ဟူ၍ ဖြစ်သည်၊ မှန်ပါ၏၊ တစ်ဘဝလုံး စာနှင့်အတူလာခဲ့သော ဆရာတော်မဟုတ်ပါလော။

ထို့နောက် "ဆို"ဟူ၍ အမိန့်ပေးကာ သုတ်ပါထေယျ အဋ္ဌကထာကို (ဒုတိယနေ့အဖြစ်) ပို့ချတော်မူ၏၊ အစပ္ပိုင်းလည်း အနည်းငယ် ပြောပါ၏၊ သို့သော် စိတ်ရှိသလောက် လေက လိုက်နိုင်ဟန် မတူတော့ပါ၊ လေသံက အတော် အားပျော့နေပါပြီ၊ အသံကလည်း အက်တက်တက် ဖြစ်နေသည်၊ "ဆို, ဆို" ဟူ၍သာ အမိန့်ပေးသည်က များနေပါ၏။

နေ့ ၁ နာရီထိုးသောအခါ "ကဲ-ဒီကနေ့ တော်ကြဦးစို့, နောက်တစ်ချိန် ပါရာဇိကဏ်စာဝါတော့ မချတော့ဘူး၊ ဘုန်းကြီး နည်းနည်း မောနေတယ်၊ မနက်ကလဲ အားနည်းလို့ ဩဝါဒမပေးလိုက်ရဘူး၊ မနေ့က အဖျားသွေးရှိတယ်၊ ဒီနေ့တော့ နေကောင်းပါတယ်၊ နည်းနည်း အားနည်းနေတာ တစ်ခုပါပဲ။"

"ဦးပဋ္ဌင်းတို့ ကိုရင်တို့ အားလုံး ကျန်းမာရေးဂရုစိုက်ကြ, ကျန်းမာရေးရှိမှ အလုပ်လုပ်လို့ဖြစ်တယ်၊ သီလကိုလဲ စင်ကြယ်အောင် ထိန်းကြ, သာသနာမှာဒါ အရေးအကြီးဆုံးပဲ၊ ကဲ-ဒီကနေ့ စာဝါ တော်ပြီ၊ နက်ဖြန်လဲ မသေသေးရင်တော့ ဆက်လက် ချပို့ရတာပ"ဟူ၍ပင် ရွှေဘိုသံနှင့် မိန့်မြွက်သွားလေသည်။

## အနှောင့်အယှက် ပေးနေကြတာလား

ဆရာတော်သည် စာချပြီးသောအခါ ပြုစုသူကိုယ်တော် ၂ ပါး အထိန်းဖြင့် တွဲ၍ သူ့ကျောင်းကလေးသို့ ပြန်ကြွသွားသည်၊ အနည်းငယ် မောနေ၏၊ အပြင်ဘက် ဝရန်တာ ပက်လက်ကြိမ်ကုလားထိုင်ကလေးပေါ်တွင် မှေးနေသည်၊ မန္တလေးမှ ဆရာဝန်ကြီး ဦးထွန်းသင်နှင့် အမရပူရမြို့နယ် ဆရာ ဝန် ဦးကံရွှင်တို့အပြင် တပည့်ဆရာများပါ ရောက်လာကြ၏၊ ဆရာတော်၏ ကျန်းမာရေးကို စစ်ဆေးကြည့်ရှုကြသည်၊ အခြေအနေကို ဆရာဝန်ကြီးများက သိထားကြပါ၏၊ သို့သော် မည်သူ့ကိုမျှ ထုတ်ဖော်မပြောကြပါ။

ထို့နောက် ဆရာဝန်ကြီး ဦးထွန်းသင်က အမရပူရမြို့နယ် လွှတ်တော်ကိုယ်စားလှယ်လောင်းဖြစ်၍ ရွေးကောက်ပွဲရက် နီးကပ်နေသောကြောင့် ဆွေးနွေးတိုင်ပင်ရန် ပြန်သွားကြသည်၊ ထိုအချိန်မှာ ၂ နာရီခွဲခန့် ရှိနေပြီ။

ဆရာတော်သည် ပထမတွင် သူ့ကျောင်းကလေး၏ အပြင်ဘက် ဝရန်တာတွင် ရှိသော ပက်လက်ကြိမ်ကုလားထိုင်ကလေးပေါ်၌ နောက်ကို လဲလျောင်း မှီကာ မှေး၍ ထိုင်နေ၏၊ မျက်စိကို မှိတ်ထားပြီး လက်ဖျားနှစ်ဖက် ပူးယှက်၍ လက်အုပ်ချီထားသည်၊ ဘုရားကို အာရုံပြုနေကျ ဖြစ်၏၊ နာရီဝက်ခန့် ကြာသောအခါ အပြင်ဘက်၌ အအေးများလွန်းသည် ထင်၍ ကျောင်းကလေး၏ အတွင်းက ကုလားထိုင်ပေါ်သို့ ရွှေ့ပြောင်းနေထိုင်ပြန်သည်၊ မျက်စိကို မှိတ်ထား၍ လက်အုပ်ချီနေသည်။

အပြင်ဘက် လောကဓာတ်၌ကား မိုးဖွဲကလေး ကျလာလိုက်, တိတ်သွားလိုက်၊ နေရောင်ခြည်ကလေး ပြလာလိုက်, ကွယ်သွားလိုက်နှင့် အေးစိမ့်စပ်ရှားစွာ ရာသီ ဥတု ဖောက်ပြန်နေသည်။

နောက်ထပ် နာရီဝက်ခန့်အကြာ ညနေ ၃ နာရီခွဲအချိန်တွင်ကား ကုလားထိုင်ဖြင့် ထိုင်နေရာမှ "အိပ်ခုတင်ပေါ်တွင် လှဲချင်သည်"ဟု ဆိုသောကြောင့် ဝေယျာဝစ္စပြုနေကြသော ဦးပဏ္ဍိတ (ဒေါ်မြရဟန်း), ဦးကုမာရ (ပအို့), ကိုရင် ဝါယာမနှင့် ကိုရင် ဇနိန္ဒတို့က ဖေးဖေးမမဖြင့် အိပ်ခုတင်ပေါ်သို့ ရွှေ့တင်ပေးကြသည်၊ ကျောင်းတွင်းစေတီရှိရာ တောင်ဘက်သို့ ခေါင်းပြု၍ ခင်းထားသော ရိုးရိုးအိပ်ခုတင်လေးပေါ်တွင် ယာဘက်စောင်းလျက် လျောင်းနေတော်မူ၏။

ထို့နောက် ဆရာတော်က ပြုစုသူများကို "ကိုယ့်ကျောင်း ကိုယ်ပြန်ကြ"ဟု ပြန်၍ လွှတ်သည်၊ ပြုစုသူ ဦးပဥ္စင်း ကိုရင်တို့က စိတ်မချ၍ မပြန်ကြပါ၊ အခြေအနေ စိုးရိမ်ရသည်ထင်၍ နောက်ထပ်ပင် ဦးပဥ္စင်း ကိုရင်များ တိုးလာကြပြန်သည်။

ဆရာတော်က "ပြန်ကြ"ဟု နှင်၏၊ မပြန်ကြပေ၊ ရစ်ဝဲ ရစ်ဝဲ လုပ်နေကြသည်၊ နောက်တစ်ကြိမ် "ပြန်ကြတော့"ဟု အမိန့်ရှိပြန်၏၊ ကိုယ်တော်များက စိတ်မချသည့် အနေဖြင့် မပြန်ကြပေ၊ ထိုအခါ ဆရာတော်က **"ဘုန်းကြီးကို မင်းတို့တစ်တွေ အနှောင့်အယှက် ပေးနေကြတာလား"**ဟု မိန့်လိုက်တော့မှ အားလုံး အရှိ အရှိ ဆင်းပြေးကုန်ကြရတော့သည်။

## အာရုံကောင်းထင်ဖို့ ပြင်ဆင်နေလေသလား

ဆရာတော်ကား သူ၏ ဥပဇ္ဈာယ်ဆရာ စစ်ကိုင်းတောင်ရိုးမှ မဟာဂန္ဓာရုံဆရာတော်ဘုရားကြီးကဲ့သို့ ဗုဒ္ဓါနုဿတိနှင့် မေတ္တာကို အထုံများသော ဆရာတော်တစ်ပါး ဖြစ်၏၊ မကြာ မကြာလည်း တပည့်များအား **(ဗုဒ္ဓါနုဿတိ မေတ္တာ စ, အသုဘံ မရဏဿတိ)**ဟူသော စတုရာရက္ခတရား ကမ္မဋ္ဌာန်းများကို ဟောကြားလေ့ရှိ၏၊ သတိပေးလေ့ရှိ၏။

ယခုလို အရေးကြုံလာသောအခါ ဆရာတော်လည်း သူကိုယ်တိုင် ဤတရားများကိုပင် အားထား၍ နေလိမ့်မည်ဟု ယူဆရပါသည်၊ နောက်ထပ် နာရီဝက်ခန့်အကြာ ညနေ ၄ နာရီအချိန်တွင် (ဆရာဝန်မှာကြားချက်အရ) ကိုရင်ဝါယာမက ဆရာတော့်ထံ ဆေးကပ်ရန် သွား၏၊ ဆရာတော်သည် အသက်ကို ဖြည်းဖြည်းကလေး ရှူနေပြီး မျက်လွှာနှစ်ခုကို မြေးယှက်ထား၍ မှိန်းနေတော်မူသည်။

ကိုရင်ဝါယာမ ရောက်လာသည့်အသံကို ကြားသောအခါ မြေးယှက်ထားသော မျက်လွှာအစုံကို ဖွင့်၍ ကြည့်၏၊ ပြီးမှ ဖြည်းဖြည်း မှိတ်သွားပြန်သည်၊ အသက်ကို မျှဉ်းမျှဉ်းကလေး ရှူနေ၏၊ ကိုရင်ဝါယာမက "ဆေးကပ်ပါမည်ဘုရား"ဟူ၍ လျှောက်ကြားသည့် စကားလုံးတို့ကို "မလိုတော့ပါဘူးကွယ်"ဟူ၍ ပြန်လည်မိန့်ကြားသည့်အလား အမူအရာများဖြင့် ပြောနေကြသည်၊ စကားလုံးတို့ကား နှစ်ပါးလုံး အသံမထွက်ကြပါ၊ ရင်တွင်းများ၌သာ လှည့်ပတ်တိုးဝှေ့နေကြပါလိမ့်မည်။

ထို့နောက် စူးစိုက်၍ ကြည့်နေစဉ် ဆရာတော်၏ ခန္ဓာကိုယ်လုံးကြီးသည် လက်ယာနံတောင်းဖြင့် စောင်းလျက် အိပ်ရာထက်တွင် လဲလျောင်းနေရာမှ ပက်လက်လန်သွားတော့သည်ဟူ၏၊ လက်နှစ်ဖက်ကိုလည်း ဘေးတစ်ဖက်စီတွင် ချထားကာ မျက်လွှာများ မှေးထားသည်၊ အိပ်ရာထက်တွင် မည်သည့်အခါမျှ ပက်လက်လှန်၍ ကျိန်းစက်လေ့မရှိသဖြင့် ကိုရင်က စိတ်ပူသွားမိသည်၊ ထိုအချိန်တွင် ဦးကုမာရနှင့် ဦးပဏ္ဍိတတို့ ရောက်လာကြ၏၊ ဆရာတော်၏ အနေအထားကို ကြည့်၍ စိုးရိမ်သည့် အနေဖြင့် ဆရာတော်ကို ခေါ်ကြည့်ကြသည်၊ ပြန်လည်မထူး ထပ်၍ ခေါ်ကြည့်ကြပြန်သည်၊ ခွန်းတုံ့ မပြန်လာ၊ သို့အတွက် စာချဘုန်းကြီး, သံဃာကြီးများကို ပြေး၍ ပင့်ကြရတော့၏။

အမှန်မှာ မထူးသော်လည်း ခေါ်သည်ကို ဆရာတော် ကြားမည်သာ၊ ဤအချိန်မျိုးတွင် ဤသို့လာ၍ ခေါ်သည်ကို အနှောင့်အယှက် ပေးသလို ဖြစ်၍ ဆရာတော် နှစ်သက်မည် မထင်။

သို့စင်လျက် မည်သည့်အရာကိုမျှ မတွယ်ဖက်ဘဲ မိမိ၏ တရားအချက်အလက်တို့ကိုသာ ဆင်ခြင်တော်မူနေပါလိမ့်မည်။

## "ကိစ္စမရှိပါဘူး"စကား ကြားပါရစေ

တရေးတကြိုး သတင်းပေးလာချက်အရ စာချ ဘုန်းကြီးဦးကုဏ္ဍလာဘိဝံသ ချက်ချင်း ရောက်လာသည်၊ အခြေအနေအရ အရေးတကြီးစီစဉ်ရ၏၊ "အခု အချိန်မှာ ဆရာဝန်ကြီး ဦးထွန်းသင်က မဲဆန္ဒကိစ္စတွေနဲ့ ဘယ်ရောက်နေမယ် မသိနိုင်ဘူး၊ ဒီတော့ မြို့နယ်ဆရာဝန်ကြီး ဦးကံရွှင်နဲ့ ဒေါက်တာညိုညိုကို အမြန်သွားခေါ်"ဟု နီးရာကိုယ်တော်ကို လွှတ်ရတော့၏၊ ခဏအကြာတွင် ဆရာဝန်ဦးကံရွှင်က အလျင် ရောက်လာသည်၊ သို့သော် ကျောင်းကလေးပေါ် ရောက်ခါမှ "နားကြပ်မပါ"ဟု ဆို၍ ရေးကြီးသုတ်ပျာ ပြန်ဆင်းလာသည်၊ လက်နက်ကိရိယာ မပါဘဲ အဘယ်သို့ တတ်နိုင်အံ့နည်း။

သံဃာကြီးများ တစ်ပါးပြီးတစ်ပါး ခပ်သုတ်သုတ် ရောက်လာကြသည်၊ ဆရာတော့်ကို ကြည့်၍ အရေးကြီးနေကြသည်၊ ထို့နောက် ဒေါက်တာညိုညို ရောက်လာ၏၊ တစ်အားရှိသလို ဖြစ်သွားကြသည်၊ ထိုအချိန်မှာ ၄ နာရီ မိနစ် ၂၀ ခန့် ရှိနေပြီ၊ တပည့်မ ဒေါက်တာညိုညိုက ရောက်လျှင် ရောက်ချင်း ဒိုးဒိုးဒေါက်ဒေါက် ကောက်ကာငင်ကာ ဆရာတော့်ကို နားကြပ်ဖြင့် စမ်းသပ်ပါတော့သည်၊ သံဃာများလည်း တစ်ပါးပြီး တစ်ပါး ရောက်လာဝိုင်းအုံနေကြတော့၏၊ "ဘယ်လို အခြေအနေများ ရှိပါသလဲ" ရင်ထဲတွင် ကိုယ်စီ တဒိတ်ဒိတ်။... သံဃာများက ဒေါက်တာညိုညို၏ မျက်နှာကိုသာ အကဲခတ်နေကြသည်၊ မည်သို့ အဖြေပေးလိုက်လေမည်နည်း၊ "ကိစ္စမရှိပါဘူး"ဟု ပြောလိုက်လေမလား၊ ဤစကားမျိုးကိုပင် ကြားချင်ပါသည်၊ ကြားပါရစေ။...

သံဃာများက အရေးကြီးနေကြသည်၊ ရင်တမမနှင့် ဖြစ်နေကြသည်၊ သို့သော် ဒေါက်တာ ညိုညိုက မည်သို့မျှ အဖြေမပေးသေး။

ဒေါက်တာညိုညိုလည်း စိတ်လှုပ်ရှားနေဟန် တူပါသည်၊ စိတ်လှုပ်ရှားစွာဖြင့် စမ်းသပ်နေသည်၊ တစ်မျိုးပြီးတစ်မျိုး ပြောင်းလွှဲစမ်းသပ်နေ၏၊ သတိရအောင် ပြုနေသလား၊ အသက်ရှူအောင် ပြုနေသလား မသိပါ၊ ဆရာဝန်တို့နည်းဖြင့် ပြုပြင်ပေးနေသည်၊ အစွမ်းကုန်ကြိုးစားနေသည်ကို တွေ့ကြရသည်။

ဝိုင်းအုံကြည့်နေကြသော သံဃာတော်များက လည်း ဒေါက်တာညိုညိုထံမှ အဖြေကို သိချင်လှပြီ၊ အဖြေကို ပြောစေချင်လှပြီ၊ "အဖြေကိုသာ မြန်မြန် ပြောလိုက်ပါတော့"ဟူ၍ ရင်တွင်း လှုပ်ရှားစွာဖြင့် တောင်းတနေကြသည်၊ "ဘုရား၊ ဘုရား၊ ဘုရား ကိစ္စမရှိပါဘူး"လို့ သာ ကြားပါရစေ။

## ရွှေတောင်ကြီး ပြိုလဲပါပြီကော

ဤနည်းဖြင့် ဆရာတော်ကြီးကို တစ်လှည့်... ဒေါက်တာ ညိုညို့မျက်နှာကို တစ်လှည့်၊ နောက်တစ်ဖန် ဆရာတော်ကြီးကို တစ်လှည့်၊ ဒေါက်တာညိုညို့ မျက်နှာကို တစ်လှည့် မျက်လုံးပုခက်လွှဲ၍ အကဲခတ်နေကြသည်၊ သို့သော် တပည့်မလေး ဒေါက်တာညိုညိုက အဖြေကို ပါးစပ်ဖြင့် ဖွင့်ထုတ်၍ နှုတ်ဖြင့် မပြောပါ၊ ပြော၍လည်း ထွက်ဟန်မတူပါ၊ သူ့မျက်နှာကလေးမှာ "ညှိုး"ခနဲ ရုတ်တရက်ပြောင်းလွဲသွားပြီးလျှင် "ရဲ"ခနဲ နီမြန်းလာကာ တအားကုန်အော်၍ ငိုချလိုက်ပါတော့သည်၊

**"ရွှေတောင်ကြီး ပြိုလဲချေပြီတကား"**

ဤအသိမျှသာ သိလိုက်ကြ၍ နောက်ထပ် ပီပီသသ မသိကြတော့ပါ၊ စကြဝဠာကမ္ဘာလောကဓာတ်ကြီး တစ်ခုလုံး ဂျိန်းဂျိန်းမြည်ကာ ချာချာလည်သွားသလို ထင်လိုက်ကြရသည်၊ မျက်စိအာရုံ နားအာရုံတို့လည်း မပီမပြင် မထင်ဝိုးဝါး မကွဲပြားကြတော့ပါ။

အနားတွင်ရှိသော ကိုယ်တော်ငယ် သံဃာတို့လည်း ဒေါက်တာညိုညိုနှင့်ရော၍ သောသာရုတ်ရုတ် ငိုကြွေးကြတော့သည်၊ ထိုအချိန်မှာ ညနေ ၄ နာရီခွဲတိတိ ရှိလေပြီ၊ မှုန်ပျပျနှင့် အရောင်ဖျော့ဖျော့နေမင်းကြီးသည်လည်း အနောက်ဘက်တစ်ခွင် ကောင်းကင်ပြင်၌ မကန်းကွက်ဆင်နေသော တိမ်တိုက်များကြားထဲသို့ တိုးဝင်ပုန်းအောင်း ပျောက်ကွယ်သွားလေသည်၊ ဝန်းကျင်ဝဲယာ ဆယ်ဖြာပတ်ကုံး လောကဓာတ်တစ်ခွင်လုံးလည်း မှုန်ရီဝေဆိုင်း၍ ကြည်လင်ခြင်း မရှိတော့ပါ၊ ပြိုတော့မည့်အသွင်၊ ငိုတော့မည့်အသွင်ကဲ့သို့ ထင်နေရပါသည်၊ တိမ်တိုက်ကြားသို့ ညှိုးငယ်စွာ ပျောက်ကွယ်သွားသော နေမင်းကြီးသည်လည်း ယခုအခါတွင် ရှိုက်ကြီးတငင် ငိုပွဲဆင်၍များ နေလေပြီလော၊ အချိန်ကား **၁၃၃၉ ခုနှစ် နတ်တော်လပြည့်ကျော် ၂ ရက် (၂၇-၁၂-၇၇) အင်္ဂါနေ့ ညနေ ၄ နာရီခွဲတိတိ** အချိန်ဖြစ်သတည်း။

# သက်ရှိတွေက မဲ့ကြဲပေမယ့် သက်မဲ့ကတော့ ပြုံးလို့
## သက်ရှိတွေက မဲ့, သက်မဲ့ကတော့ ပြုံး

ဒေါက်တာညိုညို ငိုသောအခါ စိုးရိမ်တကြီး အနီးတွင် ရင်တလှပ်လှပ်ဖြင့် ဝိုင်းအုံနေကြသော ဦးပဥ္စင်း ကိုရင်များ အားလုံး ချုံးပွဲချ၍ ကျုံကျုံပါအောင် ငိုကြပါတော့သည်၊ မည်သူက မည်သူ့ကိုမျှ ထိန်း၍ မရ, စိတ်ရှိ လက်ရှိ ငိုကြပါတော့သည်၊ အချို့က နံရံကို ခေါင်းနှင့် ဝှေ့၍၊ မည်သူ့ကို ရန်တွေ့ရမည် မသိသလို, အားမလို အားမရ ရှိတိုင်း အရုပ်ကြိုးပြတ် ဖြစ်နေကြရတော့သည်။

ဤနည်းဖြင့် ကျောင်းတိုက်ကြီးတစ်ခုလုံးသိကာ ဝိုင်းအုံလာကြပြန်၍ မြေကြီးကို ခြေနှင့်ဆောင့်ကာဆောင့်ကာ ငိုကြွေးကြတော့သည်၊ ထိုအချိန်ကမူကား ထိုမြင်ကွင်းကြီးတစ်ခုလုံး သောက ပရိဒေဝတို့ဖြင့် ဖုံး၍ တစ်ကျောင်းတိုက်လုံး မျက်ရည်ရွှဲကာ ငိုပွဲဆင်ကြလေတော့သည်။

ထိုအခါ ကျောင်းတိုက်တွင် အကြီးဆုံးဖြစ်သော (ဆရာတော်၏တပည့်ကြီး)ဦးစန္ဒောဘာသက အခြေအနေကို ထိန်းပေးရ၍၊ ညီငယ်ကလေးများပမာ သံဃာတော်တို့ကို ကျယ်ကျယ်လောင်လောင် မငိုကြဖို့ ဖြောင်းဖျဖြေသိမ့်ရတော့သည်၊ ထို့နောက်"ဤကိစ္စကို တိုင်းပြည်က အမြန်သိနိုင်အောင် မြန်မာ့အသံက ကြေညာပေးရမည်၊ ယနေ့ညပင် ပါနိုင်အောင် သတင်းပေးရမည်"ဟု သတိရ၍ တောင်လေးလုံးကျောင်းတိုက်က (ကိုပညာ) အရှင်ပညာဇောတကို အခေါ် ခိုင်းရတော့သည်။

အရှင်ပညာဇောတကလည်း အပြေးလာခဲ့သဖြင့် နာရီဝက်အတွင်း ဆရာတော်ကြီး၏ ရုပ်အလောင်းနားသို့ ရောက်လာခဲ့၏၊ ဆရာတော် ဦးစန္ဒောဘာသ၏ ဖြေသိမ့်ချော့မော့ထားမှုကြောင့် သံဃာတော်များမှာ အသံထွက်အောင် မငိုကြသော်လည်း ကိုယ်စီကိုယ်င မျက်ရည်စတွေဖြင့် မဲ့လျက်နေကြသည်ကား အသီးသီးပင် ရှိနေကြသည်။

အရှင်ပညာဇောတက ဆရာတော်ကြီး၏ ရုပ်အလောင်းကို ကွက်ခနဲ ကြည့်လိုက်၏၊ အသားတော်က ဝင်းစို၍ မျက်နှာတော်က ပြုံး၍ နေသည်ကို တွေ့ရသည်၊ တစ်ဖန် ပတ်ဝန်းကျင်တွင် ဝိုင်းအုံနေကြသော သံဃာများကို ကြည့်မိပြန်၏၊ ကိုယ်စီကိုယ်င မဲ့နေကြသည်။

ထိုအခါ အရှင်ပညာဇောတက (ကလောင်ပိုင်ရှင် စာရေးဆရာပီပီ) အရာရာတွင် စေ့စေ့စပ်စပ်မြင်တတ်သည့် ဉာဏ်ဖြင့် "သြော်...သက်ရှိတွေက မဲ့နေကြပေမယ့်, သက်မဲ့ကတော့ ပြုံးလို့ပါတကား"ဟု မှတ်ချက်ချမိပါသတတ်။

## သိမ့်သိမ့်တုန်သော ထိုနေ့ည

ထို့နောက် အရှင်ပညာဇောတ၏ ကြိုးစားမှုဖြင့် ပင် မန္တလေးမြို့သို့ ပြေး၍ ဟံသာဝတီသတင်းစာမှ တစ်ဆင့် ရန်ကုန်မြန်မာ့အသံသို့ ဆက်သွယ်သတင်းပို့နိုင်ခဲ့၏၊ ထို့ကြောင့် ထိုနေ့ ည ၈ နာရီ ပြည်တွင်းသတင်းအခန်းတွင် ကြေညာလိုက်သဖြင့် တစ်နိုင်ငံလုံး သိသွားကြရတော့သည်။

ထိုသတင်း ကြေညာပြီးသည်နှင့်တစ်ပြိုင်နက် အနီးအနားတွင် ရှိသော မန္တလေး စစ်ကိုင်း မြစ်ငယ် ပလိပ် ကျောက်ဆည် မြင်းခြံ မုံရွာ ရွှေဘို စသောမြို့တို့မှ ရင်းနှီးရာ ဒါယကာ ဒါယိကာမတို့သည် ညတွင်းချင်း ကားများဖြင့် တဝေါဝေါ ကျောင်းတိုက်အတွင်းသို့ ဝင်လာကြတော့သည်။

ထိုနေ့ညကား အမရပူရမြို့ကလေးတစ်ခုလုံး သိမ့်သိမ့်တုန်နေသလို အမြို့မြို့ အရွာရွာ အနယ်နယ် အရပ်ရပ်၌ ရှိကြသော ဆက်နွယ်ရာ ဒါယကာ ဒါယိကာမ လူပရိသတ် ရဟန်းပရိသတ် သီလရှင် ပရိသတ်တို့လည်း (ထိုသတင်းကို ကြားမိသည်မှစ၍ တစ်ညလုံး) သောကအစိုင်အခဲတို့ဖြင့် ရင်ဝယ်ငြိမ့်၍ သိမ့်သိမ့်ခုန်ကာ တုန်လှုပ်ချောက်ချားနေကြရတော့သည်၊ အမရပူရမြို့တွင်းမှ ဒါယကာ ဒါယိကာမတို့လည်း ထိုအခါမှ အများစုက သိကြ၍ ဝိုင်းအုံလာကြတော့၏၊ အချို့ ရေဒီယို နားမထောင်မိသူတို့ကမူ "ဒီကနေ့ည တို့ မြို့ထဲကို ကားတွေ ဘာ့ကြောင့် အလာ များနေရသလဲ"ဟုပင် မေးမိကြသတတ်။

ဤသို့ဖြင့် ကျောင်းတိုက်ကြီးတစ်ခုလုံး ကားတွေရော, လူတွေပါ ပြည့်ကြပ်နေကြတော့သည်။

ထိုညကား အိပ်သည်ဟူ၍ မရှိကြတော့ပါ။ ဆရာတော့် ရုပ်အလောင်းကို ဖူးမြော်ကြရင်း "ဘယ့်နှယ်လဲ, ဘာသံမကြား ညာသံမကြား, ဖျားတယ် နာတယ်လို့လဲ မသိလိုက်ရ, ပျံလွန်တော်မူခါမှ ရေဒီယိုက ကြေညာလို့ သိရတော့တယ်၊ ဒါတောင် ဟုတ်မှ ဟုတ်ပါ့မလားလို့ ယုံမှားသံသယနဲ့ လာခဲ့ကြရတာ" စသည်ဖြင့် ဝေဖန်ပြောဆိုရင်း မိုးလင်းကြတော့သည်။

## ဈာပနအခမ်းအနား စီမံကြခြင်း

### ဆရာ+ဒကာ နှစ်ဖြာစည်းဝေး

ဆရာတော် ပျံလွန်တော်မူသည့် နတ်တော်လပြည့်ကျော် ၂ ရက်နေ့ညနေက (ထိုနေ့ညပင်) မြန်မာ့အသံမှ ကြေညာနိုင်အောင် ဆောင်ရွက်ရခြင်းကိစ္စ, မန္တလေးမှ ရွှေကျင်သာသနာပိုင် ဆရာတော်ဘုရားကြီးနှင့် ရွှေကျင်ဂိုဏ်း၏ ဦးစီးဆရာတော်ကြီးများအား အကြောင်းကြားရခြင်းကိစ္စမျှလောက်သာ ဆောင်ရွက်နိုင်တော့၏၊ အချိန်များ ကုန်သွားပါလေပြီ၊ နတ်တော်လပြည့်ကျော် ၃ ရက်နေ့ နံနက်တွင် ဆရာတော်၏ ရုပ်အလောင်းကို ပျံလွန်တော်မူရာ ဆရာတော်၏ သစ်သားစံကျောင်းကလေးပေါ်မှ ပင့်၍ ကျယ်ကျယ်ပြန့်ပြန့် ဖူးနိုင်ခွင့်ရအောင် ဦးသောင်းညွှန့်+ဒေါ်ခင်လှတို့၏ ပွဲကုန်းသိမ်ကြီးပေါ်သို့ ပြောင်းရွှေ့ကြသည်။

နေ့လယ် ၁၂ နာရီတွင် ကျောင်းတိုက်ရှိ သံဃာတော်ကြီးများနှင့် ဆရာတော်၏ တပည့် ဒါယကာဒါယိကာမများ, ကျောင်းဒကာ ကျောင်းအမများ ဈာပနကျင်းပရေးအတွက် စည်းဝေးတိုင်ပင်ကြ၏၊ သာသနာပိုင်ဆရာတော်ဘုရားကြီးနှင့် ဂိုဏ်းဦးစီးဆရာတော်ကြီးများကို ပင့်ပြီးလျှင် မည်သို့ ဆောင်ရွက်ရမည်ကို လျှောက်ထားကြသည်၊ ထိုအခါ ဆရာတော်ကြီးများက "မည်သို့ ဆောင်ရွက်လိုကြသနည်း" ဟု တိုက်တွင်း တပည့်ကြီးတို့၏ ဆန္ဒကိုပင် ပြန်၍ မေးတော်မူကြ၏။

ထိုအခါ "ပျံလွန်တော်မူသွားသော ဆရာတော်၏ ဆန္ဒအလို ရက်တိုတို ကျဉ်းကျဉ်းနှင့် ၅ ရက်လောက်သာ ထားပြီး မီးသင်္ဂြိုဟ်လိုသော်လည်း ယခုပင် ၂ ရက် ကုန်သွားပါပြီ၊ ကြားတွင် ၂ ရက်မျှသာ စီမံဖို့ရှိတော့သဖြင့် မဖြစ်နိုင်တော့ပါ၊ သို့အတွက် ၇ ရက်ထားလိုပါကြောင်း, ထို့အပြင် အခြား ဆရာတော်ကြီးများကဲ့သို့ မန္တလေး အရှေ့ပြင်သို့ ပင့်ဆောင်ပြီး သင်္ဂြိုဟ်လိုသော်လည်း အမရပူရ (တောင်မြို့)မှာပင် သင်္ဂြိုဟ်လိုသူတို့၏ ဆန္ဒက များကြပါသဖြင့် အမရပူရမှာပင် သင်္ဂြိုဟ်ပါတော့မည့်အကြောင်း" လျှောက်ထားကြရသည်။

### ဆရာတော်ကြီးများ၏ ညွှန်ကြားချက်

ထိုအခါ ဆရာတော်ဘုရားကြီးများက "၇ ရက်ထားခြင်း, အမရပူရမှာပင် သင်္ဂြိုဟ်လိုကြခြင်းသည် အများဆန္ဒအရ သင့်မြတ်ပါတယ်၊ အဲဒီအတိုင်း ဆက်ပြီး ဆောင်ရွက်ကြတာပေါ့"ဟူ၍ အသိအမှတ်ပြုတော်မူကြပါသည်၊ ထို့ပြင် "ပထမ ရွှေကျင်သာသနာပိုင်ဆရာတော်ဘုရားကြီး, ဒုတိယရွှေကျင်သာသနာပိုင်ဆရာတော် ဘုရားကြီးနှင့် နောက်ဆုံးသက်တော်ရှည်သာသနာပိုင် စံကင်းဆရာတော်ဘုရားကြီးများ၏ ဈာပနတွေတုန်းကလို (က) အလှူခံသံဃာကို ပင့်ဖို့ မလို၊ (ခ) သူတို့ထံမှ အထောက်အပံ့ကိုလဲ လက်မခံလို၊ (ဂ) ဒီကလဲ လှူဒါန်းဖွယ်တွေ ပြန်ပြီးလှူဖို့ မလို၊ ကြွလာရင်တော့ ဧည့်ဝတ်ကျေအောင် ပြုစုကြမယ်၊ ပြီးတော့ ကြွလာလိုတဲ့ ပုဂ္ဂိုလ်များ သူတို့ ဆန္ဒအတိုင်းပဲ ကြွလာနိုင်ပါတယ်၊ အကယ်၍ ပင့်စာနဲ့ ပင့်လိုက်ပါက ဆရာတော်ကြီး၏ တပည့်တွေက အများကြီးဆိုတော့ စုံအောင် ကုန်အောင် နှံ့မည်လဲ မဟုတ်, မနှံ့တော့ ပင့်စာမရတဲ့ ပုဂ္ဂိုလ်တွေနဲ့ အခြား လာလိုတဲ့ ပုဂ္ဂိုလ်တွေကို အဲဒီ ပင့်စာက ဟန့်တားသလိုလဲ ဖြစ်သွားပါလိမ့်မယ်၊ အဲလိုနဲ့ အလာခက်သွားကြလိမ့်မယ်"ဟု အမိန့်ရှိတော်မူကြ၏၊ ထို့ကြောင့် ထိုအတိုင်းပင် ကျေနပ်စွာ လက်ခံ၍ ဆောင်ရွက်တော်မူကြသည်။

ဤသို့ဖြင့် အထူးမပင့်သော်လည်း ရေဒီယိုနှင့် သတင်းစာတို့၏ ကျေးဇူးကြောင့် အားလုံးသိကာ နေရာအနှံ့အပြားသို့ ရောက်နေကြသော ဆရာတော်၏တပည့်များသည်လည်းကောင်း, သံယောဇဉ်ထားကြသည့် အခြားဆရာတော်တို့သည်လည်းကောင်း ကိုယ့်အသိနှင့်ကိုယ် ကြွရောက်လာတော်မူကြသည်၊ အန္တိမဈာပနနေ့အထိ နေ့စဉ် တဖွဲဖွဲ ရောက်လာနေကြ၏၊ ထိုနေ့ (နောက်ဆုံးနေ့)ကဆိုလျှင် အားလုံး စုစုပေါင်း သံဃာ ၂၅၀၀ ခန့်မျှ ရှိသည်ဟု စာရင်းအရ သိကြရသည်။

# အဆင်တန်ဆာ ခြယ်မှုန်းခြင်း မပြုကြရန်

## ပကာသနမလွှမ်း၍ အဆန်းပြန်ဖြစ်

ဂိုဏ်းဦးစီးဆရာတော်ကြီးများထံမှ ညွှန်ကြားချက်ကို ရယူပြီးနောက် ဈာပနဇဟိုကော်မတီကို (က) သံဃာတော်များအဖွဲ့၊ (ခ) လူပုဂ္ဂိုလ်များအဖွဲ့ဟူ၍ နှစ်ရပ်ဖွဲ့စည်းလိုက်ကြ၏၊ ပြီးမှ တစ်ဖန် လူပုဂ္ဂိုလ်များဇဟိုကော်မတီမှ ဘဏ္ဍာရေး, ဧည့်ခံကျွေးမွေးရေး, လုံခြုံရေး, ပြန်ကြားရေး, ကျန်းမာရေးစသည်ဖြင့် ဆပ်ကော်မတီများ ထပ်မံဖွဲ့၍ အသေးစိတ် ဆောင်ရွက်ကြသည်။

ထိုအစည်းအဝေးကြီးကမူ အားဖြင့် "အရာရာတွင် ပျံလွန်တော်မူသွားခဲ့သော ဆရာတော်ဘုရားကြီး၏ အလိုကျဖြစ်စေရန်, ပကာသနမလွှမ်းစေဘဲ ဓမ္မသံဝေဂ အစွမ်းဖြင့် အေးချမ်း ငြိမ်သက်စွာ ဆောင်ရွက်ကြရန်" ရည်ညွှန်းတော်မူကြသည်။

"သို့ဖြစ်လျှင် အလောင်းတော် ရုပ်ကလာပ်ကို မည်သို့ ပြင်ဆင်ထားကြမည်နည်း"ဟု အမေးရှိလာရာ အစည်းအဝေးမှ ကမ္ဘာ့ဇဟုသုတ အကြားအမြင်ရှိသူတို့က ပြောကြ၏။

"အိန္ဒိယမှာ ဂန္ဒီကြီးကိုဆိုလျှင် သူတော်စင်ကြီးအဖြစ်နှင့် (ဘုရားတမျှ) လေးစားကြပါတယ်၊ တစ်နိုင်ငံလုံး ကြည်ညိုကြပါတယ်၊ အဲဒီပုဂ္ဂိုလ်ကြီးကွယ်လွန်တော့ သူ့ဆန္ဒအရပဲ အပိုပကာသနလွှမ်းတဲ့ တန်ဆာတွေ မခြယ်ကြပါဘူး၊ ရိုးရိုးကလေးပဲ ထားကြပါတယ်၊ အဲဒီလို ရိုးရိုးကလေးထားခြင်းသည်ပင် ပကာသနခေတ်ကြီးတွင် အဆန်းဖြစ်နေပါတော့တယ်။"ဟု ဖြေကြသဖြင့် ထိုအဖြေသည် လွန်တော်မူသော ဤဆရာတော်၏ဝါဒနှင့် ကိုက်ညီသည်ဟု လက်ခံကြ၏။

ဟုတ်ပါသည်၊ တစ်ခါတုန်းက ဩဝါဒပေးရင်း အကြောင်းစပ်လာသဖြင့် ဆရာတော်ကိုယ်တိုင်ပင် အမိန့်ရှိဖူး၏။

"အမေရိကန်သမ္မတတစ်ဦးက သူသေရင်တဲ့, ပကာသနတွေ ပြုလုပ်ပြီး အပို အကုန်အကျတွေ မခံပါနဲ့၊ သူ့အလောင်းကို ရေထဲမှာသော်လည်း မျှောပါ၊ ငါးတွေ စားရအောင်လို့၊ ဒါမှမဟုတ် မြေကြီးထဲမှာသော်လည်း မြှုပ်ပါ၊ တီကောင်တွေ စားရအောင်လို့တဲ့၊ ဒါဘာလို့လဲ ဆိုတော့, သူက အများအကျိုးဆောင်သမားမို့တဲ့၊ ဟုတ်လိုက်တာ၊ ဒါ ငါ့ဝါဒနဲ့ တူလိုက်တာ"ဟု အမိန့်ရှိဖူးသည်။

**(၂၉ ၃ ဘဆုန်လဆန်း ၁၀ ရက် ဩဝါဒ)**

ဤမှုအရ ဆရာတော်၏ ရုပ်အလောင်းကို ဖယောင်း, ပုခက်, ရိပ်ဖြူ, စံကျောင်း, တလား စသည်တို့ဖြင့် ပြင်ဆင်မထားဘဲ ရိုးရိုးကလေး သစ်သားခုတင်သန့်သန့်ပေါ်တွင် (ပကတိပင်ကိုအတိုင်း) ထားရန် သဘောတူကြပါသည်။

ထို့အပြင် ခုတင် ထောင့်လေးခုမှာ ရှင်ငယ်ရဟန်းငယ်များကို တစ်ဖွဲ့လျှင် ၄ ပါးစီ တွဲ၍ တစ်တွဲလျှင် မိနစ် ၃၀ စီ သက်န်းလက်ကန်တော့တင် မတ်မတ်ရပ် လက်အုပ်ချီပြီး အလှည့်ကျ ပူဇော်နေကြရန်ကိုလည်း သဘောတူကြပါသည်။

## ကျောင်းအမတစ်ဦး၏ ရင်ထဲခံစားချက်

ဤသို့ ပကာသန မလွှမ်းသော မှုများကို ချမှတ်၍ အစည်းအဝေးခန်းမမှ ဈာပနကော်မတီများထွက်လာကြသောအခါ ဆရာတော်၏ ရုပ်အလောင်းတွင် ပိတ်ဖြူများ၊ ဇာပန်းများ၊ ပန်းတွန့်များ၊ ပန်းနုများ၊ အညွန့်အခက် ရောင်စုံများဖြင့် လှလှပပ ဆင်မြန်းထားပြီး ဖြစ်နေသည်ကို တွေ့ကြရတော့၏၊ အားလုံး အံ့အားသင့်ကြရတော့သည်၊ အစည်းအဝေးဆုံးဖြတ်ခဲ့သောမှုနှင့် မကိုက်ညီ ဖြစ်နေသောကြောင့်တည်း။

မေးကြည့်သောအခါ ကျောင်းအမတစ်ဦးက ရုပ်အလောင်းကို သူ လာ၍ ဖူးမြော်စဉ်တွင် ဘာမျှ အဆင်တန်ဆာမရှိသဖြင့် သူ့ရင်ထဲ၌ မချည့်အောင် ခံစားရသည်ဆို၏၊ သို့နှင့် မန္တလေးသို့ ချက်ချင်းသွားကာ ဝယ်သင့်ဝယ်ရာ ပစ္စည်းများကို ဝယ်ယူလာပြီးလျှင် သူ့လက်အောက်ငယ်သား တပည့်များနှင့် ခြေမြန်လက်မြန် ဝိုင်းဝန်းဆင်မြန်းပစ်လိုက်သည် ဆို၏၊ သို့နှင့် ထိုကျောင်းအမအလှူရှင် ကျေနပ်မှုရှိရုံ ထိုတစ်နေ့မျှ ဆင်မြန်းမှုကို လက်ခံ ခွင့်ပြုထားကြပြီးလျှင် နောက်တစ်နေ့တွင်ကား နားလည်သဘောပေါက်အောင် ပြောပြတောင်းပန်၍ အဆင်အပြင်တို့ကို ဖယ်ရှားလိုက်ကြသည်။

ရိုးရိုး သစ်သားခုတင်တစ်လုံး သန့်သန့်ပေါ်တွင် (အောက်ခံမွေ့ရာ မပါဘဲ) သင်ဖြူးဖျာနှင့် ပိတ်ဖြူခင်းပြီးလျှင် ရုပ်အလောင်းတော်ကို သက်န်းခြုံ၍ မျက်နှာတော် ဖော်ထားကာ ပကတိကျိန်းစက်နေသည့်အသွင် ပြင်ဆင်ထားကြသည်၊ ပြီးလျှင် ရှင်ငယ် ၄ ပါးစီ (သို့မဟုတ်) ရဟန်းငယ် ၄ ပါးစီကို အဖွဲ့ဖွဲ့၍ တစ်ဖွဲ့လျှင် မိနစ် ၃၀ စီ ရုပ်အလောင်းခုတင်၏ ထောင့် ၄ ခုမှာ တစ်ထောင့်လျှင် တစ်ပါးကျ မတ်မတ်ရပ် လက်အုပ်ချီလျက် ပူဇော်နေကြသည်၊ ၂၄ နာရီလုံး အချိန်ပြည့် အလှည့်ကျ ပူဇော်နေကြရ၏။

ထို့နောက် ခေါင်းရင်းဘက်တွင် ထီးဖြူကြီး ၄ စင်းနှင့် ရွှေထီးကြီး ၄ လက်ကို စဉ်တန်း၍ ထား၏၊ ထို့ပြင် စားပွဲရှည်ကြီးပေါ်တွင် ဆရာတော် ပြုစုရေးသားခဲ့သော ကျမ်းစာအုပ်များ၊ ဆရာတော်၏ သပိတ် ပရိက္ခရာများကို တင်ပြထားသည်၊ ဤမျှသာ အဆင်အပြင်ရှိ၏၊ ထို့ပြင် ရုပ်ကလာပ်၏ အနီးမှ (ဆရာတော်ကြီး အသက်ရှိစဉ်က ဟောခဲ့သော) တိပ်ခွေတို့ကို ဖွင့်ပြထားရာ လာသမျှ ပရိသတ်တို့ကို ပင် ဆီး၍ တရားဟောသလို၊ ယခုပင် အသက်ရှိနေသေးသလိုလို ထင်ရသဖြင့် သောက ပရိဒေဝ နည်းစေတော့သည်။

ထိုမှတစ်ပါး ရုပ်ကလာပ်ထားရာ ပွဲကုန်းသိမ်ကြီးကို လျှပ်စစ်မီးလုံး ရောင်စုံအနည်းငယ် ထွန်းညှိထားရုံမှအပ အခြား မွမ်းမံခြယ်သမှု မပြုကြရပေ။

## ဘုန်းကြီးသေ ရွှေခေါင်းကြီးနှင့်

ဤသို့လျှင် ဆရာတော်၏ မူဝါဒအရ "မကုန်သင့်က မကုန်ရ၊ ကုန်သင့်မှ ကုန်ရမည်"ဟူသည့် အတိုင်း အဆင်တန်ဆာ အရှင်းမပါဘဲ အခြယ်အသ လုံးဝကင်းသော ရုပ်အလောင်းတော်ကို ဖူးနေကြရသည်မှာ အားမလို အားမရ ရှိကြဟန်တူ၏။

အဖူးလာကြသူတို့မှာလည်း ပျံလွန်တော်မူသည့်နေ့ကစ၍ နောက်ဆုံးဈာပနနေ့တိုင်အောင် ၂၄ နာရီလုံး နေ့ညမစဲ တဖွဲဖွဲ အမြဲလိုပင် ဝင်ထွက် ပြည့်ကြပ်နေကြသည်၊ ရပ်နီးမှပုဂ္ဂိုလ်တို့က အလုအယက် လာကြသလို ရပ်ဝေးက ဒါယကာ ဒါယိကာမတို့ကလည်း ကားကြီး ကားငယ် အသွယ်သွယ်တို့ဖြင့် အုပ်စုလိုက် အုပ်ဖွဲ့လိုက် ရောက်ရောက်လာကြသည်။

ထိုအထဲတွင် အချို့က အထင်တစ်မျိုး ထင်ကြသည် ဆို၏၊ "ဘယ့်နှယ်လဲ၊ ဆရာတော်ကြီး နာမည်ကြီးပြီး ဈာပနပွဲကျတော့ တာဝန်ခံမည့်သူ မရှိလို့လား၊ တယ်-မျက်နှာငယ်စရာ ဖြစ်နေပါမင့်ကလား" ဟူ၍ တီးတိုး တီးတိုး ပြောကြသည်အထိ ဖြစ်သတတ်၊ တချို့ကမူ စုရုံးတိုင်ပင်ကြပြီးလျှင် အကြီးအကဲ ဆရာတော်များအား လာ၍ လျှောက်ကြသည်။ "တပည့်တော်က မြပုခက်တာဝန်ယူမယ် ဘုရား၊ တပည့်တော်ကတော့ ရွှေခေါင်းတာဝန်ဘုရား၊ တပည့်တော်က ရိပ်ဖြူစံကျောင်း၊ တပည့်တော်ကတော့ တလားဘုရား"ဟု လျှောက်ထားကြ၏၊ အားလုံးကို နားလည်အောင် ဆရာတော် ဦးစန္ဒာဘာသက ရှင်းရှင်းပြနေရသည်။

သို့သော်လည်း နောက်ထပ် မနောက်ထပ် ရပ်နီး ရပ်ဝေး မြို့နယ်တို့မှ တဖွဲဖွဲ အသစ်အသစ် ရောက်လာကြပြန်ရာ ထိုခံစားချက်မျိုးပင် ခံစားရဟန် တူသည်၊ သူတို့ကား (ဘုန်းကြီးသေ ရွှေခေါင်းကြီးနှင့်) ဆိုသော အမြင်ကိုသာ မြင်နေကျ ဖြစ်နေသည် မဟုတ်ပါလော။

မိုးကုတ်မှ ကျောက်သူဌေး ဒါယကာတစ်ဦးကမူ "ဒီဈာပနပွဲကြီးအတွက် သိန်းပေါင်းဘယ်လောက်ကုန်မလဲဘုရား၊ ကုန်သလောက် တပည့်တော်တာဝန်ယူမယ်ဘုရာ" ဟူ၍ပင် လျှောက်ထားလေသည်၊ ဤပုဂ္ဂိုလ် အားလုံးကို နားလည်အောင် ရှင်းရှင်း ပြနေရသည်ကပင် အမောဖြစ်၏။

## ရုပ်ဒြဗ်ဟူသည် အပုပ်အစပ်မျှသာ

ဤကဲ့သို့ ပျံလွန်တော်မူကာမှ အစွမ်းကုန် အိတ်သွန်ဖာမှောက် ပူဇော်မှုမျိုး, ဘုန်းကြီးပျံ, ဘိုးတော်ပျံ, ဘတော်ပျံ, မယ်တော်ပျံ ပူဇော်မှုမျိုး (အသက်ရှင်စဉ်က ဆေးဝါးဓာတ်စာဖိုး နမြောသော်လည်း သေသောအခါမှ အကုန်အကျ များစွာခံ၍ ချသော အသုဘမျိုး)အတွက် အလဟဿ ဖြုန်းတီးမှုများ မလိုလားအပ်ကြောင်းကို ဆရာတော်က မကြာခဏ အပြစ်ဆိုတတ်သည်။

ဆရာတော် အရှင်ဇနကာဘိဝံသက ကိုယ်တော်တိုင် "အနာဂတ်သာသနာရေး"ကျမ်းစာတွင်လည်းကောင်း, အခြား အခြားသော ကျမ်းစာများတွင်လည်းကောင်း ယင်းကိစ္စများ ဖော်ပြရေးသားထားသည်မှာ များစွာရှိ၏။

နှုတ်ဖြင့်လည်း အကြောင်းဆိုက်တိုင်း မိန့်မြွက်ဟောကြားချက်တွေ များစွာရှိသည်၊ ယခု အစီအစဉ်များမှာ ပျံလွန်တော်မူသွားသော ဆရာတော်၏ ဆန္ဒနှင့် ကိုက်ညီအောင် ကျန်ရစ်သော ပုဂ္ဂိုလ်များက စီစဉ်နေကြခြင်း ဖြစ်ပေသည်။

ဆရာတော်၏ ဝါဒမှာ "မသေခင် တန်ဖိုးထားကြရမည်၊ မိဘ သားသမီး ဆရာသမား ဆွေမျိုး အပေါင်းအသင်း တစ်ဦးနှင့်တစ်ဦး မေတ္တာထားကြရမည်၊ ဝတ္တရား ကျေရမည်၊ သေပြီးလျှင်ကား ရုပ်ဒြဗ်တို့သည် အပုပ်အစပ်မျှသာ ဖြစ်၏၊ အပိုမချဲ့သင့်" ဟူလို။

ဤကိစ္စမျိုး၌ ဆရာတော် အရှင်ဇနကာဘိဝံသသာမကသေး၊ ဆရာတော်၏ ဆရာ ဒသမမြောက် ရွှေကျင်သာသနာပိုင် (ဝိသုဒ္ဓါရုံ) မြောင်းမြဆရာတော်ဘုရားကြီးကလည်း ဤဝါဒမျိုးပင် ခံယူတော်မူ၏၊ အသက်တမျှ အလွန်ရင်းနှီး ချစ်ခင်လှသော ကျွန်းကုန်းဆရာတော်ကြီး ပျံလွန်တော်မူစဉ်က မြောင်းမြဆရာတော်ဘုရားကြီးကိုယ်တိုင် ဦးစီး၍ သင်္ဂြိုဟ်တော်မူခဲ့သည်။

## ကျွန်းကုန်းဆရာတော်ကြီး၏ ဈာပနမှတ်တမ်း

ပထမနေ့ ညနေ ၅ နာရီအချိန် ပျံလွန်တော်မူရာတွင် "နောက်တစ်နေ့ အပြီးသင်္ဂြိုဟ်ရမယ်"ဟု ဆိုင်ရာ ဒါယကာတို့ကို အမိန့်ချ၏၊ ဒကာတို့က "နာရီ ၃၀ လောက် အချိန်ပေးပါ"ဟု လျှောက်သည်ကိုပင် လက်မခံ၊ "တို့မှာက တစ်ပါးသေလျှင် တစ်ပါးက အမြန်ဆုံး သင်္ဂြိုဟ်ရမယ်"လို့ ကတိကဝတ်ထားခဲ့တာ၊ ဖြစ်အောင်လုပ်ပေးဟု အမိန့်ရှိနေသည်၊ ဆရာတော်ကြီး ၂ ပါးသည် အသက်ရှင်စဉ်က တစ်ပါးနှင့်တစ်ပါး အလွန်ရိုသေ လေးစားချစ်ခင်တော်မူကြ၏၊ ဤချစ်ခင်ရင်းနှီးမှုနှင့် စပ်၍ သက်မဲ့ရုပ်ကြီးကိုပါ စွဲလမ်းနေရမည် မဟုတ်ဟု လက်တွေ့ပြခြင်း ဖြစ်တော်မူပါသည်၊ စီစဉ်ပေးဟု အရေးတကြီး မိန့်နေ၏၊ အမိန့်ကို မလွန်ဆန်နိုင်သဖြင့် စီစဉ်ပေးကြရ၏၊ နောက်တစ်နေ့ ၄ နာရီတွင် မီးသင်္ဂြိုဟ်နိုင်ခဲ့သည်၊ ပြီးမှ ဆိုင်ရာတို့ကို အကြောင်းကြား၏၊ သတင်းစာ၌ ထည့်၏၊ ဤသည်တို့ကို မြောင်းမြဆရာတော်ကြီးကိုယ်တိုင် မှတ်တမ်း ရေးသားခဲ့သည်။

* "အလောင်းကို ပြုပြင်ရာ၌ မကျန်းမမာစဉ်က ခါး၌ ဝတ်ထားသော သင်္ကန်းဖြင့်ပင် ပြုပြင်ပေးလိုက်၏၊ ခေါင်းမရိတ်၊ ရေမချိုး၊ ခြေလက်ကြိုးမချည်၊ အသက်ရှင်စဉ်က ကျိန်းစက်နေသလို ပြင်ထား၏။

* "မြောင်းမြဆရာတော် သာသနာ ဘယ်လိုပြုခဲ့သလဲ" နှာ-၁၀၈။

ဘာတစ်ခုမျှ မွမ်းမံခြယ်သခြင်း မပြုပါ။ ဈာပနကို အကျဉ်းဆုံး ရက်အတိုဆုံးထား၍ ၂၃ နာရီမျှဖြင့် ပြီးအောင် ဆောင်ရွက်သည်။

သင်္ဂြိုဟ်စရိတ် ၁၅ဝိ၊ ခေါင်း ၅ဝိ၊ လိုက်ပို့ကြသည့် မော်တော်ယာဉ် ဘတ်စ်ကားခ ၈ဝိ၊ သတင်းစာ၌ ထည့်ခ ၁၇ဝိ၊ စုစုပေါင်း ၄၅ဝိ (လေးရာငါးဆယ်ကျပ်မျှသာ ကုန်၏" ဟု မှတ်တမ်း ရေးထိုးတော်မူခဲ့သည်။

## ဝမ်းနည်းကြေကွဲ သဝဏ်လွှာများ ပေးပို့ခြင်းနှင့်သတင်းစာများက ရေးသားကြခြင်း

### ဆရာတော်ဘုရား အနားယူသွားပြီ

အရှင်ဇနကာဘိဝံသ ဆရာတော်ကြီး ပျံလွန်တော်မူပြီး နောက်တစ်ရက်မှစ၍ အနယ်နယ် အရပ်ရပ်မှ ဆရာတော်ကြီးများထံမှလည်းကောင်း၊ ပြည်ထောင်စု မြန်မာနိုင်ငံတော် သာသနာရေးဦးစီးဌာနမှလည်းကောင်း၊ သာသနာတော်အရေး ရင်လေးမိကြသော သီတင်းသုံးဖော် ဆရာတော်များထံမှလည်းကောင်း ဝမ်းနည်းကြေကွဲကြောင်း သဝဏ်လွှာများ နေ့စဉ်မစဲ တဖွဲဖွဲ ရောက်လာကြတော့သည်။

အချို့ဆရာတော်ကြီးများမှာ ကိုယ်တော်တိုင် ကြွလာကြ၍ ဓမ္မသံဝေဂများ ယူတော်မူကြသည်၊ နှမြောကြ၏၊ တသကြ၏၊ စုပ်သတ်ကြ၏၊ ရင်ကိုမကြ၏၊ ဝမ်းနည်းကြ၏၊ ကြေကွဲကြ၏၊ ယူကျုံးမရဖြစ်ကြ၏၊ အစားထိုး၍ မရနိုင်သော ဆုံးရှုံးမှုကြီးအတွက် အလွန်နာကျင်စွာ ရင်ထဲ၌ အညီအမျှ ခံစားကြရ၏။

သတင်းစာများကလည်း ဓာတ်ပုံသတင်းများဖြင့် ဖော်ပြကြ၏၊ အချို့က ဆရာတော်ကြီးအကြောင်းကို ဆောင်းပါးရေးကြသည်၊ အချို့က ဆရာတော်ကြီး၏ စိတ်ဓာတ်၊ ဆရာတော်ကြီး၏ လုပ်ရပ်၊ ဆရာတော်ကြီး၏ စေတနာတို့ကို ဖော်ပြကြသည်၊ "သာသနာတော် တစ်ရပ်လုံးနှင့် မြန်မာပြည်သားတွေအဖို့ ဆုံးရှုံးမှုကြီးတစ်ရပ်"ဟု ဆိုကြ၏။

ကလောင်ရှင် ကိုပညာ (အမရပူရ)က ဟံသာဝတီသတင်းစာတွင် "ရွှေတောင်ကို နေရောင်မခနိုင်တော့ပြီ" ခေါင်းစဉ်ဖြင့် ဆရာတော်ကြီး၏ ကျန်းမာနေစဉ်က စာရေးနေဟန်ကို တင်ပြပြီး၊ နောက်ဆုံးတွင် နတ်တော်လပြည့်ကျော် ၂ ရပ်နေ့က နံနက်ပိုင်း၌ မိုးအုံ့နေပုံ၊ ရာသီဥတုမကြည်လင်ပုံ၊ ဆရာတော်ကြီးအတွက် လောကဓာတ်ကြီးက စိတ်မချမ်းမြေ့သလို ဖြစ်နေပုံ၊ တောင်သမန်ဝန်းကျင်တွင် နှင်းတွေ ဝေနေပုံနှင့် ညနေပိုင်းတွင် အနောက်ဘက်တစ်ခွင် မိုးကောင်းကင်၌ မိုးသားတိမ်လိပ်တို့ မကာန်းကွက်ဆင်၍ တက်လာပုံ၊ နေရောင်ခြည်သည် မှုန်ပျပျသာ လင်းနိုင်တော့ပုံ၊ ထိုအချိန် ၄ နာရီခွဲမှာ ဆရာတော်ကြီး လုံးဝ အနားယူသွားပုံတို့ကို မြင်သာအောင် တင်ပြ ရေးသားဖော်ပြထားသည်။

### ၂၅-၂၆ ရာစုခေတ် အရှင်မဟာဗုဒ္ဓဃောသ

စာရေးဆရာ သတင်းစာဆရာကြီး လူထုဦးလှကမူ ပျံလွန်တော်မူပြီးနောက် တစ်ရက်အနေအထားကို (သူကိုယ်တိုင် ဈာပနဗဟိုကော်မတီတွင် ပါဝင်ဆောင်ရွက်နေရသဖြင့် မျက်မြင် သိထားသည့်အတိုင်း) ဟံသာဝတီသတင်းစာတွင် ဤသို့ ဖော်ပြထားပါ၏၊ "နတ်တော်လပြည့်ကျော် ၃ ရက် (၂၈-၁၂-၇၉) နေ့ကတော့ ကျောင်းတိုက်ကြီးထဲမှာ ပရိသတ်တွေ အထူးပဲ စည်ကားပါတယ်။

သက်တော် ၉၂ နှစ်ရှိ ရွှေကျင်သာသနာပိုင် ဆရာတော်ဘုရားကြီးလည်း မန္တလေး အရှေ့ပြင်ကနေ ကြွလာပါတယ်၊ ဒါပေမယ့် ရဟန်းပရိသတ်၊ သီလရှင်ပရိသတ်၊ လူပရိသတ်တွေရဲ့ မျက်နှာများမှာတော့ အလျှင်အလျှင်တွေတုန်းကလို မရွှင်ပျကြတော့ဘူး၊ ညှိုးငယ်နေကြတယ်၊ မျက်လုံးအိမ်တွေထဲမှာ မျက်ရည်တွေ ပြည့်နေကြတယ်၊ တချို့ကတော့ ငိုလို့ ရှိုက်လို့။

ဆရာတော် အရှင်ဇနကာဘိဝံသ ကိုယ်တော်မြတ်ကြီးကလဲ ခါတိုင်းလို ပြုံးရွှင်တဲ့မျက်နှာ၊ ကြည်သာတဲ့ အသံမျိုးနှင့် ဆီးပြီး တရားမဟောတော့ပါဘူး၊ အားလုံး ပရိသတ်တွေရဲ့ရှေ့က ခုတင်တစ်လုံးပေါ်မှာ ငြိမ်သက်စွာ လဲလျောင်းစံနေတော်မူရင်း "အသုဘကမ္မဋ္ဌာန်းရှုကြ"လို့ ရင်ထဲမှ မထွက်သော

စကားလုံးတို့ဖြင့် ပြောနေသလို ဟောနေသလိုပါပဲ" ဟူ၍ ပုံဖော်ထားလေသည်။

စာရေးဆရာမကြီး လူထု ဒေါ်အမာကလည်း ကြေးမုံသတင်းစာမှ နေ၍ "အရှင်ဇနကာဘိဝံသ ဆရာတော်ကြီး ပျံလွန်တော်မူတယ်ဆိုတော့... သာသနာတော်ကို မြတ်နိုးတဲ့သူတိုင်းက ယူကျုံးမရ နှမြောတသကြတယ်၊ ဘာလို့လဲဆိုတော့ ဒီဆရာတော်ကြီးက သာသနာမှာ သိပ်အကျိုးများတာကိုး။

ဘုရားအလိုတော်နဲ့ အနီးကပ်ဆုံးဖြစ်အောင် သူ့တပည့်သံဃာများကိုလဲ ပြုပြင်ထားတယ်၊ ပြီးတော့ ဒီသာသနာတော်အတွက် နှစ်ပေါင်း ၄၀ လောက်အတွင်းမှာ ကျမ်းစာအုပ်ပေါင်း ၆၀ ကျော်လောက်ကိုလဲ ပြုစုသွားတော်မူတယ်"စသည်ဖြင့် ဖော်ပြထား၏။

ထို့ပြင် မင်းကွန်းတောင်ရိုးမှ တိပိဋကဓရဓမ္မဘဏ္ဍာဂါရိက ဆရာတော်ကြီး ဦးဝိစိတ္တသာရာဘိဝံသ ကွယ်လွန်ပုံ၊ သာသနာ့သစ်ပင်ကြီးမှ အရေးပါတဲ့ အကိုင်းကြီးတစ်ကိုင်း ကျိုးကျသွားသလို ဖြစ်ရပုံ၊ အစားထိုးမရသော ဆုံးရှုံးမှုကြီးပဲဟု မိန့်တော်မူပုံတို့ကိုလည်း ဖော်ပြထားသည်။

မန္တလေးအနောက်ပြင် စိန်ပန်းရပ် အဘယာရာမကျောင်းတိုက်ကြီးမှ ဒုတိယနာယကဆရာတော် အရှင်သီလာနန္ဒာဘိဝံသကမူ "သာသနာတော် ၂၅၊ ၂၆ ရာစုခေတ် အရှင်မဟာဗုဒ္ဓဃောသ"ဟူ၍ပင် တင်စား၍ ဆရာတော်အား လေးစားစွာ ဂုဏ်ပြုပူဇော်ထားပါသည်။

## စာရေးဆရာများက ဂုဏ်ပြုကြခြင်း

ထို့ပြင်လည်း စာရေးဆရာငွေလွင် (ဆားလင်းကြီး)က လုပ်သားပြည်သူ့နေ့စဉ်သတင်းစာမှနေ၍လည်းကောင်း၊ ဆရာ တက်တိုးက ဟံသာဝတီသတင်းစာမှ နေ၍လည်းကောင်း၊ မောင်ဝံသက မြန်မာ့အလင်းသတင်းစာမှ နေ၍လည်းကောင်း အသီးသီး ကိုယ့်ရှုထောင့် ကိုယ့်အမြင်ဖြင့် ဆရာတော်၏ အကြောင်းကို တင်ပြကြသည်။

ထို့နောက်ပိုင်းရက်များတွင်လည်း ဆက်ကာဆက်ကာ သတင်းစာ မဂ္ဂဇင်း စာစောင်တို့မှ နေ၍ စာရေးဆရာ ဒါရိုက်တာ ဦးသုခ၊ ဓမ္မဃောသက ဦးမောင်မောင်၊ နတ်မောက်ထွန်းရှိန်၊ မုံရွာ ဝင်းဖေ၊ ချစ်စံဝင်း၊ အရှင်သုမန (ရေဦး)၊ အရှင်ကုသလ (ညောင်ရမ်း)၊ အရှင်ကဝိသာရ (ဝေဇယန္တာ-စစ်ကိုင်း)၊ အရှင်မဟောသဓပဏ္ဍိတ (ဝေဇယန္တာ-စစ်ကိုင်း)၊ မေမြို့ မိုးကြည်၊ စာရေးဆရာမ မကြွယ်ကြွယ် စသည်တို့ကလည်း အသီးသီး ရေးသားတင်ပြ ဂုဏ်ပြု ပူဇော်ကြပါသည်။

ဤသို့လျှင် စာရေးဆရာ အသီးသီးတို့က ဆရာတော်ကြီး ပျံလွန်တော်မူသွားရသဖြင့် ရင်တွင်း၌ ခံစားရသော ဝေဒနာတို့ကို ပြည့်ကျပ်စွာ သိုလှောင်မထားနိုင်သဖြင့် ထုတ်ဖော် ဖွင့်ဟ မြည်တမ်းကြပါသည်။

## စာဆယ်ကြောင်းမျှဖြင့် ကန်တော့ခဲ့

အထူးသဖြင့် စာရေးဆရာ သတင်းစာဆရာကြီး ဦးသိန်းဖေမြင့်ကား ဆရာတော် အရှင်ဇနကာဘိဝံသ ကိုယ်တော်မြတ်ကြီး ပျံလွန်တော်မူခြင်းနှင့်စပ်၍ ရင်တွင်း၌ တလှပ်လှပ် နာကျင်စွာ ခံစားရဟန် တူပါသည်၊ ပျံလွန်တော်မူသွားကြောင်း ရေဒီယိုမှ သတင်းကို ကြားရပြီး နောက်ပိုင်းမှ စ၍ ထိုင်ချီထချီ အားမလို အားမရ ဖြစ်နေဟန် တူပါသတဲ့။

"ဘယ်လိုလဲ၊ ဘာရောဂါမှ ထူးထူးခြားခြား မရှိပါဘူးလို့ ဆရာဝန်တွေကလဲ ဆိုသေး"ဟု နှုတ်မှ ရွတ်ဆိုကာ မကျေနိုင် မချမ်းနိုင် ဖြစ်ပြီးလျှင် သူကိုးကွယ်နေကျ အာယုဗ္ဗေဒ သိမ်ဖြူဆေးသိပ္ပံမှ ဆရာတော်ကြီး ဦးနာဂသေနာဘိဝံသထံသို့ သွားရောက် မေးလျှောက်ပါသတဲ့။

ထိုအခါ ဆရာတော်ကြီးက "ဒါဟာ ဖြစ်နိုင်ပါတယ်၊ (အာယုက္ခယ၊ ကမ္မက္ခယ၊ ဥဘယက္ခယ) အသက်တမ်းကုန်ခြင်း၊ ကံစွမ်းကုန်ခြင်း၊ နှစ်မျိုးလုံးကုန်ခြင်းကြောင့် (မီးစာကုန် ဆီခန်းဆိုသလို) ဖြစ်နိုင်ပါတယ်"ဟု အမိန့်ရှိလိုက်ပါသတဲ့၊ "ပြီးတော့လဲ ဆရာဝန်တွေကတော့ ဆရာတော်ကြီးရဲ့ အခြေအနေမှန်ကို သိမှာပါပဲ၊ သို့ပေမယ့် ဆရာတော်ကြီး

စိတ်အားမငယ်အောင် မပြောဘဲ ဖုံးထားတာလဲ ဖြစ်ချင်ဖြစ်မှာပေါ့"ဟူ၍ မိန့်တော့မှ ဘဝင်ကျသွားဟန်တူပါသတဲ့၊ ဤအဖြစ်အပျက်များကို သူ၏ဇနီးက ပြောပြ၍ သိရပါသည်။

ဦးသိန်းဖေမြင့်သည် ဆရာတော် အရှင်ဇနကာဘိဝံသနှင့် မဟာဂန္ဓာရုံကျောင်းတိုက်ကြီးအကြောင်းကို လွန်ခဲ့သော ၃ နှစ်လောက်က စာရေးဖူး၏၊ ဆရာတော်ကို ကြည်ညိုသည်၊ မန္တလေးသို့ ရောက်တိုင်း ဆရာတော့်ထံသို့ မရောက်ရောက်အောင် သွားမြဲ ဖြစ်သည်။

ထို့ကြောင့် ဆရာတော်ကို သူ၏ စိတ်အာရုံတွင် ထင်မြင်နေဟန်တူသည်၊... ယခု ဆရာတော့် အကြောင်းကိုရေးရန် ကလောင်ကို ကိုင်၍ စာရေးစားပွဲတွင် ထိုင်လိုက်ပါပြီ။

## အရှင်ဇနကာဘိဝံသ

### ရေးသူ – သိန်းဖေမြင့်

"ကျွန်တော် အရှင်ဇနကာဘိဝံသကို နောက်ဆုံးအကြိမ်တွေ့ရသည်မှာ ဆရာတော် ပျံလွန်တော်မမူမီ နှစ်ရက်အလိုက ဖြစ်လေသည်၊ ဒီဇင်ဘာ ၂၅ ရက်နေ့က တနင်္ဂနွေနေ့၊ နတ်တော်လပြည့်နေ့၊ ခရစ်စမတ်နေ့၊ တိုက်တိုက်ဆိုင်ဆိုင် ကျွန်တော့်မြေးဦးကလေး ၅ လပြည့်, သမီးဦးကလေး ဖြစ်ပြီး "ခင်ခင်သာ"ဟူ၍ ကင်ပွန်းတပ်သောနေ့။

မြေးမကလေးကို ကင်ပွန်းတပ်သော မင်္ဂလာအတွက် ကျွန်တော်နှင့် ခင်ကြည်ကြည်တို့ မန္တလေးသို့ ရောက်နေကြသည်၊ မနက်ပိုင်း ကင်ပွန်းတပ်သည့် ကိစ္စများ ပြီးစီးသွားသောအခါ ခင်ကြည်ကြည်က ဆရာတော် အရှင်ဇနကာဘိဝံသထံသို့ သွား၍"

"သွား၍" အရောက်တွင် သူ၏ ကလောင်သည် ရပ်တန့်သွား၏၊ ရှေ့သို့ မဆက်နိုင်တော့ပါ၊ မူးဝေလဲကျသွားတော့သည်၊ ဝိုင်းဝန်းပွေ့ထူ၍ ဆေးရုံတင်လိုက်ရသည့် အခြေအနေအထိ ရောက်သွားရတော့သည်။

ထို့နောက်တွင်လည်း ရောဂါမှ နာလံမထနိုင်ရှာဘဲ နောက်ဆုံးတွင် ကွယ်လွန်သွားခဲ့ရတော့သည်၊ ဤသို့လျှင် စာရေးဆရာကြီး သိန်းဖေမြင့်ကလည်း စာဆယ်ကြောင်းမျှလောက်ဖြင့် ဆရာတော့်အား ကန်တော့၍ သွားခဲ့ပါသေးသည်။

## ကျွန်းခေါင်းကြီးတစ်လုံးမျှသာ ပြုလုပ်

ယခု ဤကိစ္စ၌လည်း ပျံလွန်တော်မူသွားသော ဆရာတော် အရှင်ဇနကာဘိဝံသ၏ မူဝါဒနှင့်အညီ အပိုမကုန်သင့်ရာကို မကုန်စေဘဲ ဆရာတော်၏ ရုပ်အလောင်းကို သယ်ယူဖို့ရန် ကျွန်းခေါင်းကြီး တစ်လုံးမျှသာ ပြုလုပ်ကြ၏၊ ကျွန်းခေါင်းကြီးကို ပန်းတွန့်ပန်းနု ပန်းခက် စသည်တို့ဖြင့် မွမ်းမံခြယ်သမှု မပြုရ၊ ဆရာတော် ဝတ်နေကျ သင်္ကန်းရောင် (နီညိုရင့်) အသွေးသာ ဆေးသုတ်ခွင့်ပေးထားသည်။

ထိုခေါင်းကြီးကို သယ်ယူသောအခါ လွယ်ကူစေရန် ထမ်းစရာ လက်ကိုင်နှင့်တကွ အောက်ခံသစ်သားကပ်တစ်ခု ပြုလုပ်ထားကြသည်၊ ထိုခေါင်းကြီးကို "တစ်ဦးတည်း ကုသိုလ် ယူပါရစေ" ဟု လျှောက်ထားလာသူတို့ကိုလည်း ခွင့်မပေးဘဲ အရာရာတွင် စုပေါင်း၍သာ ကုသိုလ်ပြုကြရန်မှာချထား၏။

ဤ ခေါင်းကြီးကို ပြာသာဒ် ရိပ်ဖြူ တလား ကရဝိတ် စသည်တို့ဖြင့် သယ်ယူမည် မဟုတ်ပါ၊ တပည့် သံဃာ ပရိသတ်အပေါင်းက ပခုံးဖြင့် ထမ်းကာ အဆင့်ဆင့်ပြောင်း၍ သယ်ယူဖို့ စီမံထားကြခြင်း ဖြစ်ပါသည်၊ မိမိတို့ ပခုံးကို ယာဉ်အဖြစ် အသုံးပြုကြမည် ဖြစ်ပါသည်။

ယခုလို စီမံ ပြုလုပ်နေကြသည်ကို အများအားဖြင့် နားမလည်နိုင်သလို ဖြစ်နေကြပါသည်၊ "ဘယ်လို လုပ်ပြီး သင်္ဂြိုဟ်မှာတဲ့လဲ၊ သယ်ယူဖို့ရာ ကရဝိတ်လည်း မရှိ၊ ရိပ်ဖြူ ပြာသာဒ် တလားလည်း မပါ၊

ဖယောင်ကျူးတဲ့ မင်းသမီးဆိုတာလည်း မငှားဆိုတော့ ဘယ်လိုများ လုပ်ကြမှာတဲ့လဲ"၊ တီးတိုး ဝေဖန်နေကြ၏၊ သူတို့ကိုလည်း အပြစ်မဆိုသာပါ၊ သူတို့ မြင်နေကြများနှင့် တခြားစီ ဖြစ်နေ၍ ပြောနေကြခြင်း ဖြစ်သည်၊ ဤသို့လျှင် အစဉ်အလာတစ်ခုကို စွဲမိပြီဆိုလျှင် ဖြိုခွဲဖို့ မလွယ်အောင် ဖြစ်ရတတ်၏။

## တိပိဋကဓရဆရာတော်ကြီး၏ ဝမ်းနည်းကြေကွဲစကား
### အကိုင်းကြီးတစ်ကိုင်း ပဲ့၍ ကျိုးကျသွားသလို

နတ်တော်လပြည့်ကျော် ၅ ရက်နေ့ နံနက်ပိုင်းတွင် မင်းကွန်းမှ တိပိဋကဓရဘဏ္ဍာဂါရိက အရှင်ဝိစိတ္တသာရာဘိဝံသ ဆရာတော်ကြီးနှင့် သက်တော် ၉၀ ကျော် အရိယမဂ္ဂင်ချောင် ဆရာတော်ဘုရားကြီးတို့ ကြွရောက်တော်မူလာကြသည်။

မဟာဂန္ဓာရုံကျောင်းတိုက်မှ နာယကဆရာတော်ကြီးများနှင့် တိပိဋကဓရ အရှင်သုမင်္ဂလာလင်္ကာရတို့က ဆီးကြိုကြ၏၊ ရုပ်ကလာပ်ရှိရာ စံကျောင်းကြီးပေါ်သို့ ပင့်ဆောင်သွားကြသည်၊ ခန်းမကြီးအတွင်း၌ တပည့်သစ် တပည့်ဟောင်းတို့ အတော်များများ ရောက်နေကြပြီး ကြွရောက်လာသော ဆရာတော်ကြီးများကို နေရာပေး၍ လေးလေးစားစားကန်တော့ကြသည်။

ဆရာတော်အရှင်ဝိစိတ္တသာရာဘိဝံသက ဈာပနပွဲတွင် အသုံးပြုရန် ဆန်တစ်အိတ်, ဆီတစ်ပုံး, ဆားတစ်အိတ် လှူဒါန်း၏၊ "အခြား လိုအပ်တာ ရှိရင်လဲ ပြောပါ၊ ကူညီမယ်၊ ဘာမဆို ဆောင်ရွက်ပေးပါ့မယ်" ဟု အမိန့်ရှိတော်မူပါသည်၊ ထိုအခါ မဟာဂန္ဓာရုံနာယက စာချဘုန်းကြီးများက "ဆရာတော်ကြွလာခိုက် တပည့်တော်တို့အား ဩဝါဒ ချီးမြှင့်ပေးတော်မူခဲ့ပါဘုရား"ဟု လျှောက်ထားကြသဖြင့် နာရီဝက်ခန့် ဩဝါဒပေးတော်မူသည်။

ဩဝါဒကို ၃ ပိုင်း ပိုင်း၍ ပေးတော်မူ၏၊ ပထမပိုင်းတွင် **"အမရပူရ မဟာဂန္ဓာရုံဆရာတော်ဘုရားကြီး အရှင်ဇနကာဘိဝံသ ပျံတော်မူသွားတာဟာ စက်မငါးဖြာရှိတဲ့ သာသနာ့သစ်ပင်ကြီးမှ (ပင်စည်နှင့်ဆုံ အရင်းက) အရေးပါသည့် အကိုင်းကြီးတစ်ကိုင်း ပဲ့ထွက် ကျိုးကျသွားသလိုပါပဲ၊ သာသနာတော်မှာ အလွန် နစ်နာဆုံးရှုံးမှုကြီးတစ်ရပ် ဖြစ်ပါတယ်"**ဟူ၍ ဝမ်းနည်းကြေကွဲစကား မိန့်တော်မူပါသည်။

ဒုတိယပိုင်းအနေဖြင့် ကျန်ရစ်တဲ့ တပည့်ကြီးတွေက ဆရာတော် ပျိုးထောင် တည်ထားခဲ့သော တိုက်တာကြီးနှင့် ဆောင်ရွက်ခဲ့သော သာသနာပြုလုပ်ငန်းများကို မပျက်ပြားရအောင် ညီညီညွတ်ညွတ် ဆက်လက် ဆောင်ရွက်ကြဖို့ အားပေးတိုက်တွန်းတော်မူ၏။

တတိယပိုင်းအနေဖြင့် ဆရာတော်ကြီး ပျံလွန်တော်မူသည့်အတွက် သံဝေဂယူကြဖို့ရန် **"ရုပ်နာမ်ဓမ္မ, သင်္ခါရတို့, ကိုယ်ကဤပုံ, ဖြစ်လိုတုံလည်း, တစ်ဖုံဆင်ကွဲ, သူတနဲဖြင့်, ဖောက်လွဲတတ်စွာ, ဓမ္မတာကို, ပညာစက္ခု, မျှော်ထောက်ရှု၍"**စသည်ဖြင့် ရွတ်ဆို ဟောပြတော်မူသည်။

## ဓမ္မကထိကများဖြင့် ညတရားပွဲ တခြိမ့်ခြိမ့်
### နောက်ဆုံးဆယ်လ မြတ်ဗုဒ္ဓကျမ်းစာ

ဆရာတော်ဘုရား၏ ရုပ်ကလာပ်တော် ထည့်သွင်းရန် အခေါင်းစပ်နေခိုက်, မီးသင်္ဂြိုဟ်ရန် "ကြက်ချေးခံ"အုတ်ပလ္လင်တည်ဆောက်ခိုက်, ရုပ်ကလာပ်တော် ပင့်ဆောင်မည့် လမ်းတစ်လျှောက် ရှင်းလင်းနေကြခိုက် အချိန်များတွင် ညစဉ် တရားပွဲများ ကျင်းပ၍ ပူဇော်နေကြ၏။

နတ်တော်လပြည့်ကျော် ၅ ရက်နေ့ညတွင် ရုပ်ကလာပ်တော်ထားရာ စံကျောင်းကြီးပေါ်၌ ဦးစွာ ပထမ စစ်ကိုင်းတောင်ရိုး မဟာသုဇာတာရုံဆရာတော်က "ဥပသေနသုတ္တန်"ကို ဟောပြတော်မူ၏။

၆ ရက်နေ့ညတွင် စစ်ကိုင်းတောင်ရိုး ဝိပဿနာဂန္ဓာရုံ ဆရာတော် ဦးဝိမလက "ပရိညာ ၃ ပါးနှင့်

မောယရာဇသုတ္တန်ကို ဟောပြတော်မူ၏၊ ထိုညတွင် ဓမ္မကထိကဆရာတော်က ပျံလွန်တော်မူသွားသော ဆရာတော်၏ **"နောက်ဆုံးဆယ်လ မြတ်ဗုဒ္ဓ"** ကျမ်းစာကို ထည့်သွင်း ဟောပြသွားသည်။

"ဒီ နောက်ဆုံးဆယ်လ မြတ်ဗုဒ္ဓစာအုပ်ဟာ ရှေးတုန်းကတော့ ဆရာတော်က မြတ်စွာဘုရားရဲ့ နောက်ဆုံး ဆယ်လပိုင်း အခြေအနေကို ရေးတာပါပဲ၊ ဒါပေမယ့် ဒီစာအုပ်ထွက်တာက လွန်ခဲ့တဲ့ တပေါင်းလထဲက၊ ဒီတော့ အဲဒီလက စပြီး ဒကာဒကာမတို့ လက်ချိုးရေတွက်ကြည့်ကြစမ်းပါလား၊ တပေါင်း တန်ခူး ကဆုန် နယုန် ဝါဆို စသည်ဖြင့် ရေတွက်လာခဲ့ရင်... ဟောဒီ နတ်တော်လအထိ ဆယ်လ အံကိုက် ဖြစ်နေတယ်။

ဒါကြောင့် ဘုန်းကြီးက စဉ်းစားမိတယ်၊ ဒီစာအုပ်ဟာ ဘုရားရှင် ကိုယ်တော်မြတ်အတွက် နောက်ဆုံးဆယ်လ ဆိုပေမယ့် တကယ်တော့ ဆရာတော့်အတွက် နောက်ဆုံးဆယ်လ ဖြစ်နေပါရော့လားလို့" ဟုဟောလိုက်ရာ ပရိသတ်တို့မှာ အစကမှ ငိုချင်ချင်, ဤသို့ ယှဉ်၍ ပြကာမှ ရင်ထဲ ဆို့၍ သွားကြရတော့၏၊ အောင့်အီး မျိုသိပ်ထားရာမှ ရင်ထဲ လှိုက်ကာ ရှိုက်၍ ရှိုက်၍ လာကြတော့သည်။

ထိုစာအုပ်ကိုလည်း ပို၍ စိတ်ဝင်စားသွားကြရတော့၏၊ "ဘာတွေ ရေးထားလို့ပါလိမ့်"ဟူ၍ သိချင်ဇောတွေ ပိုလာကြသည်၊ နောက်တစ်နေ့မှ စ၍ ထိုစာအုပ်ကို ဝယ်ယူကြရာ အမရပူရနှင့် မန္တလေးတို့မှာ ရှိသော "နောက်ဆုံးဆယ်လ မြတ်ဗုဒ္ဓ"စာအုပ်များ ရုတ်ချည်း ကုန်သွားတော့သည် ဟူ၏၊ စာအုပ်ဆိုင်များက အရောင်းသမားတို့ကပင် "ဒီရက်အတွင်းမှာ ဒီစာအုပ်ကိုချည်း လာလာမေးနေကြ, ဝယ်နေကြတယ်, ဘာလို့ပါလိမ့်"ဟု ပြောရသည်အထိ ဖြစ်သွားခဲ့သည် ဟူသတတ်။

လပြည့်ကျော် ၇ ရက်နေ့ညမှာကား နာမည်ကျော် သပိတ်အိုင် သဲကုန်းဆရာတော် အရှင်ဉာဏိဿရ ဟောပြ၏။

သူကလည်း "ဆရာတော် ရေးသွားခဲ့သော နောက်ဆုံးဆယ်လ မြတ်ဗုဒ္ဓကျမ်းစာကိုပင် ဟောပြပါမည်"ဟု ပဋိညာဉ်ခံ၍ ထိုကျမ်းစာကိုပင် အမာခံ ကျောရိုးထားပြီးလျှင် မြတ်စွာဘုရား၏ ပရိနိဗ္ဗာန်စံခန်းကို ဟောပြတော်မူရာ သံဝေဂဉာဏ် များစွာ ဖြစ်ကြရလေသည်။

## တပည့်သစ် တပည့်ဟောင်း စုပေါင်းဂါရဝပြုပွဲ

နတ်တော်လပြည့်ကျော် ၆ ရက်နေ့ နံနက်မှာ အဝေးရောက် တပည့်ဟောင်းကြီးများ အတော်စုံလင်အောင် ရောက်နေကြပြီ ဖြစ်၍ တိုက်တွင်း တပည့်ကြီးများနှင့်အတူ ဆရာတော်ဘုရားကြီး ရုပ်အလောင်းတော်ကို ဂါရဝပြုပွဲ အခမ်းအနားကျင်းပကြသည်၊ ကြေးဝိုင်းကြီးကို ထိုး၍ အချက်ပေးလိုက်သည်နှင့်သံဃာတော်အားလုံး သင်္ကန်းလက်ကတော့တင်ကာ တိတ်ဆိတ်ငြိမ်သက်စွာဖြင့် "စံကျောင်းတော်ကြီး"ဆီသို့ စီတန်းကြွလာတော်မူကြသည်။

ရုပ်ကလာပ်တော်၏ ဝဲယာတွင် တပည့်ကြီးများက နေရာယူကြ၏၊ အလျားပေ ၁၂၀, အနံပေ ၈၀ ရှိ စံကျောင်းခန်းမကြီးတစ်ခုလုံး သံဃာတော်များဖြင့် ပြည့်လျှံသွားတော့သည်၊ စုစုပေါင်း တစ်ထောင် ... မြင်ကွင်းကို "လေငြိမ်ရာ၌ ထွန်းထားသော မီးတောက်ပမာ"ဟု ဥပမာပြတတ်ကြ၏၊ ဤမျှ ပိပြားသေဝပ်၍ တိတ်ဆိတ်ငြိမ်သက်မှုကြောင့် ပို၍ပင် ဆွတ်မောဖွယ်, တသဖွယ်ကြီး ဖြစ်ရပြန်တော့သည်။

ထိုအခိုက်တွင် အကြီးဆုံးနာယကဖြစ်သော ဆရာတော် ဦးစန္ဒောဘာသက "အားလုံးညီတော်နောင်တော် သံဃာတော် အရှင်မြတ်တို့ဘုရား... ပျံလွန်တော်မူသွားသော ကျေးဇူးရှင်ဆရာတော်ဘုရား၏ ဂုဏ်ကျေးဇူးတော်အနန္တကို အာရုံပြု၍ ၃ မိနစ်မျှ လက်အုပ်ချီမိုး ရှိခိုးပူဇော်ကြရန် ဖြစ်ပါတယ်"...ဟု ဆို့နင့် အက်ကွဲသော အသံကြီးဖြင့် ကြေညာလိုက်သည်။

ကြေညာပြီး အဆုံးတွင် သံဃာတော်အားလုံးက

ငြိမ်သက်နေသောရေမျက်နှာပြင်ထက် ကြာဖက် ကြာရွက်တို့ အကြားမှ ငွားငွားစုံစုံ ကြာဖူး ကြငုံတို့ အလား ဖြစ်တော့၏၊ ၃ မိနစ်အချိန်စေ့သောအခါ "အချိန်စေ့ပါပြီဘုရား"ဟူ၍ ကြေညာလိုက်တော့မှ ညီညာစွာ ဦးသုံးကြိမ်ချ၍ ဂါရဝပြုပွဲ အခမ်းအနားကို ရုပ်သိမ်းလိုက်ကြပါသည်။

## မင်း သူ ငါ ညီညာစုံမှ အလုံးစုံအကုန်ပြီး
### ငါမပါရင် ဘယ်ဟာမျှ မပြီး

ဤမျှ များပြားလှ၍ ဤမျှ သားနားလှပါသော သံဃာ့ပရိသတ်ကြီးကို နောက်တစ်ကြိမ် ဖူးတွေ့ရဖို့ အလွန်ခဲယဉ်းပေးလိမ့်မည်၊ သို့ဖြစ်၍ အခွင့်ကြုံခိုက်တွင် တောင်းပန်ချက်အရ (၁) မြောင်းမြမြို့ ပဋ္ဌောတာရုံတိုက်ဟောင်း ဆရာတော် ဦးဉာဏိက၊ (၂) မြောင်းမြမြို့ ပဋ္ဌောတာရုံတိုက်သစ် ဆရာတော် ဦးကုမာရနှင့် (၃) မြင်းမူမြို့နယ် ထီးဆောင်းရွာတွင် သီတင်းသုံးနေသော (မဟာဂန္ဓာရုံဆရာတော်၏ လက်ဟောင်း တပည့်ကြီး တစ်ပါးဖြစ်သော) ဆရာတော် ဦးစက္ကပါလတို့က (ညီငယ်များအား အစ်ကိုကြီးတို့က သြဝါဒပေးသည့်ပမာ) အသီးသီး သြဝါဒပေးကြပါသည်။

ထိုတွင် ထီးဆောင်းဆရာတော် ဦးစက္ကပါလ သြဝါဒပေးရာ၌ ခန္ဓာကိုယ်က ပိန်ပိန်ပါးပါး၊ အရပ်တော်ကြီးက ထွားထွား၊ ၇ ပေခန့် မြင့်မားသဖြင့် သံဃာ့ပရိသတ် ထိပ်ဖျားက မားမားကြီး ရပ်ကာ အောက်ပါအတိုင်း မိန့်ပါတော့သည်။

"ယခုအခါ ကျေးဇူးရှင် ဆရာတော်ဘုရားကြီး မရှိတော့ပြီဖြစ်၍ ကျန်ရစ်သော တိုက်တာကြီးနဲ့ သာသနာပြုလုပ်ငန်း လက်ငုပ်များကို ကျန်ရစ်သော တပည့်တို့က ဆက်လက် ထိန်းသိမ်းကြရပါမယ်၊ ထိုကဲ့သို့ ထိန်းသိမ်းတဲ့ နေရာမှာ ညီညွတ်ကြဖို့၊ ဥမကွဲ သိုက်မပျက် ဖြစ်ကြဖို့ အရေးကြီးပါတယ်၊ အဲဒီလို ဖြစ်နိုင်အောင် ဂုဏ်အင်္ဂါတို့ကတော့ တစ်ကိုယ်တော် အစွမ်းပြတဲ့ မာနမျိုးကို ရှောင်ကြဖို့ပါပဲ၊ "ဒီကိစ္စဟာ ငါမပါရင် မပြီးဘူး၊ ငါသာ စွမ်းနိုင်တယ်၊ သူမပါရင် မပြီးဘူး၊ သူသာ စွမ်းနိုင်တယ်"ဆိုတဲ့ တစ်ကိုယ်တော် အစွမ်းပြတဲ့ မာနတံခွန်မျိုးကို ဆိုလိုတာပါ၊ အဲဒီလို မာနစွမ်းကလေးတွေ ပယ်ဖျောက်ပြီး "ငါ့အစွမ်း" "သူ့အစွမ်း" "မင့်အစွမ်း"လို့ မခွဲခြမ်းဘဲ ငါရော သူရော မင်းရော စုပေါင်းလုပ်ကိုင်တဲ့နည်း၊ သူ့ငန်း ကိုယ့်ငန်း မခွဲခြားဘဲ အစွမ်းရှိသမျှ မခိုမကပ် ဆောင်ရွက်တဲ့နည်းမျိုးကို ကျင့်သုံးကြရပါမယ်"ဤသို့စသည်ဖြင့် စုံစုံလင်လင် သတိပေးတိုက်တွန်းပြီး လျှင် အောက်ပါကဗျာလင်္ကာကလေးကို တိုင်ပေး၏၊ အားလုံးက လိုက်၍ ဆိုကြရ မှတ်သားကြရသည်။

၁။ **ငါမပါ, ဘယ်ဟာမျှ မပြီး၊**
**ငါ့ချည်းတော့လည်း ဘယ်ဟာမပြီး။**

၂။ **သူမပါ, ဘယ်ဟာမျှ မပြီး၊**
**သူ့ချည်းတော့လည်း ဘယ်ဟာမပြီး။**

၃။ **မင်းမပါ, ဘယ်ဟာမျှ မပြီး၊**
**မင်းချည်းတော့လည်း ဘယ်ဟာမပြီး။**

၄။ **မင်း သူ ငါ ညီညာစုံမှ,**
**အလုံးစုံ အကုန်ပြီး, ပေါင်းကြစုစည်း။**

သူ့ကဗျာကလေးသည် ကြားရရုံမျှဖြင့် အဓိပ္ပာယ်လည်း ပေါ်လွင်လှ၏၊ ခဏချက်ချင်းပင် ပရိသတ်၏ နှလုံးသားသို့ ခိုဝင်၍ လျှာဖျားပေါ်တွင် ချိုလွင်နေတော့သည်။

## သင်္ဂြိုဟ်မည့်နေရာ ရွေးချယ်ကြခြင်း
### မည်သည့်ဘက်ကို ဦးခေါင်းထားရမလဲ

[illegible]

မောဃရာဇသုတ္တန်ကို ဟောပြတော်မူ၏၊ ထိုညတွင် ဓမ္မကထိကဆရာတော်က ပျံလွန်တော်မူသွားသော ဆရာတော်၏ **"နောက်ဆုံးဆယ်လ မြတ်ဗုဒ္ဓ"** ကျမ်းစာကို ထည့်သွင်း ဟောပြသွားသည်။

"ဒီ နောက်ဆုံးဆယ်လ မြတ်ဗုဒ္ဓစာအုပ်ဟာ ရှေးတုန်းကတော့ ဆရာတော်က မြတ်စွာဘုရားရဲ့ နောက်ဆုံး ဆယ်လပိုင်း အခြေအနေကို ရေးတာ ပါပဲ၊ ဒါပေမယ့် ဒီစာအုပ်ထွက်တာက လွန်ခဲ့တဲ့ တပေါင်းလထဲက၊ ဒီတော့ အဲဒီလက စပြီး ဒကာ ဒကာမတို့ လက်ချိုးရေတွက်ကြည့်ကြစမ်းပါလား၊ တပေါင်း တန်ခူး ကဆုန် နယုန် ဝါဆို စသည်ဖြင့် ရေတွက်လာခဲ့ရင်... ဟောဒီ နတ်တော်လအထိ ဆယ်လ အံကိုက် ဖြစ်နေတယ်။

ဒါကြောင့် ဘုန်းကြီးက စဉ်းစားမိတယ်၊ ဒီစာအုပ်ဟာ ဘုရားရှင် ကိုယ်တော်မြတ်အတွက် နောက်ဆုံး ဆယ်လ ဆိုပေမယ့် တကယ်တော့ ဆရာတော့် အတွက် နောက်ဆုံးဆယ်လ ဖြစ်နေပါရော့လားလို့" ဟုဟောလိုက်ရာ ပရိသတ်တို့မှာ အစကမှ ငိုချင်ချင်၊ ဤသို့ ယှဉ်၍ ပြကာမှ ရင်ထဲ ဆို့၍ သွားကြရတော့၏၊ အောင့်အီး မျိုသိပ်ထားရာမှ ရင်ထဲ လှိုက်ကာ ရှိုက်၍ ရှိုက်၍ လာကြတော့သည်။

ထိုစာအုပ်ကိုလည်း ပို၍ စိတ်ဝင်စားသွားကြရတော့၏၊ "ဘာတွေ ရေးထားလို့ပါလိမ့်"ဟူ၍ သိချင်ဇောတွေ ပိုလာကြသည်၊ နောက်တစ်နေ့မှ စ၍ ထိုစာအုပ်ကို ဝယ်ယူကြရာ အမရပူရနှင့် မန္တလေးတို့မှာ ရှိသော "နောက်ဆုံးဆယ်လ မြတ်ဗုဒ္ဓ"စာအုပ်များ ရုတ်ချည်း ကုန်သွားတော့သည် ဟူ၏၊ စာအုပ်ဆိုင်များက အရောင်းသမားတို့ကပင် "ဒီရက်အတွင်းမှာ ဒီစာအုပ်ကိုချည်း လာလာမေးနေကြ, ဝယ်နေကြတယ်, ဘာလို့ပါလိမ့်"ဟု ပြောရသည်အထိ ဖြစ်သွားခဲ့သည် ဟူသတတ်။

လပြည့်ကျော် ၇ ရက်နေ့ညမှာကား နာမည်ကျော် သပိတ်အိုင် သဲကုန်းဆရာတော် အရှင်ဉာဏိဿရ ဟောပြ၏။

သူကလည်း "ဆရာတော် ရေးသွားခဲ့သော နောက်ဆုံးဆယ်လ မြတ်ဗုဒ္ဓကျမ်းစာကိုပင် ဟောပြပါမည်"ဟု ပဋိညာဉ်ခံ၍ ထိုကျမ်းစာကိုပင် အမာခံ ကျောရိုးထားပြီးလျှင် မြတ်စွာဘုရား၏ ပရိနိဗ္ဗာန်စံခန်းကို ဟောပြတော်မူရာ သံဝေဂဉာဏ် များစွာ ဖြစ်ကြရလေသည်။

## တပည့်သစ် တပည့်ဟောင်း စုပေါင်းဂါရဝပြုပွဲ

နတ်တော်လပြည့်ကျော် ၆ ရက်နေ့ နံနက်မှာ အဝေးရောက် တပည့်ဟောင်းကြီးများ အတော်စုံလင်အောင် ရောက်နေကြပြီ ဖြစ်၍ တိုက်တွင်း တပည့်ကြီးများနှင့်အတူ ဆရာတော်ဘုရားကြီး ရုပ်အလောင်းတော်ကို ဂါရဝပြုပွဲ အခမ်းအနားကျင်းပကြသည်၊ ကြေးဝိုင်းကြီးကို ထိုး၍ အချက်ပေးလိုက်သည်နှင့်သံဃာတော်အားလုံး သင်္ကန်းလက်ကတော့တင်ကာ တိတ်ဆိတ်ငြိမ်သက်စွာဖြင့် "စံကျောင်းတော်ကြီး"ဆီသို့ စီတန်းကြွလာတော်မူကြသည်။

ရုပ်ကလာပ်တော်၏ ဝဲယာတွင် တပည့်ကြီးများက နေရာယူကြ၏၊ အလျားပေ ၁၂၀, အနံပေ ၈၀ ရှိ စံကျောင်းခန်းမကြီးတစ်ခုလုံး သံဃာတော်များဖြင့် ပြည့်လျှံသွားတော့သည်၊ စုစုပေါင်း တစ်ထောင်ကျော်မျှ ရှိပေ၏။

သံဃာထု၏ တိတ်ဆိတ်ငြိမ်သက်မှုမှာ အပ်ကျသံမျှပင် ကြားရမည်ထင်၏၊ ကိုယ့်တရားနှင့် ကိုယ် ဖြစ်နေပါလိမ့်မည်၊ ကျမ်းစာများတွင် ဤကဲ့သို့သော မြင်ကွင်းကို "လေငြိမ်ရာ၌ ထွန်းထားသော မီးတောက်ပမာ"ဟု ဥပမာပြတတ်ကြ၏၊ ဤမျှ ပီပြားသေဝပ်၍ တိတ်ဆိတ်ငြိမ်သက်မှုကြောင့် ပို၍ပင် ဆွတ်မောဖွယ်, တသဖွယ်ကြီး ဖြစ်ရပြန်တော့သည်။

ထိုအခိုက်တွင် အကြီးဆုံးနာယကဖြစ်သော ဆရာတော် ဦးစန္ဒောဘာသက "အားလုံးညီတော်နောင်တော် သံဃာတော် အရှင်မြတ်တို့ဘုရား... ပျံလွန်တော်မူသွားသော ကျေးဇူးရှင်ဆရာတော်ဘုရား၏ ဂုဏ်ကျေးဇူးတော်အနန္တကို အာရုံပြု၍ ၃ မိနစ်မျှ လက်အုပ်ချီမိုး ရှိခိုးပူဇော်ကြရန် ဖြစ်ပါတယ်"...ဟု ဆို့နင့် အက်ကွဲသော အသံကြီးဖြင့် ကြေညာလိုက်သည်။

ကြေညာပြီး အဆုံးတွင် သံဃာတော်အားလုံးက လက်နှစ်ဖက်အစုံတို့ကို ဖူးငုံပူးယှက်၍ ဦးထိပ်ထက်သို့ အပေါ် တညီတညွတ်တည်း တစ်ပြိုင်တည်းလို မြှောက်ချီသွားကြပြီး လက်အုပ်မိုးလျက် ရှိကျိုးပူဇော်နေကြသည်။

ငြိမ်သက်နေသောရေမျက်နှာပြင်ထက် ကြာဖက် ကြာရွက်တို့ အကြားမှ ငွားငွားစုံစုံ ကြာဖူး ကြငုံတို့ အလား ဖြစ်တော့၏၊ ၃ မိနစ်အချိန်စေ့သောအခါ "အချိန်စေ့ပါပြီဘုရား"ဟူ၍ ကြေညာလိုက်တော့မှ ညီညာစွာ ဦးသုံးကြိမ်ချ၍ ဂါရဝပြုပွဲ အခမ်းအနားကို ရုပ်သိမ်းလိုက်ကြပါသည်။

## မင်း သူ ငါ ညီညာစုံမှ အလုံးစုံအကုန်ပြီး
### ငါမပါရင် ဘယ်ဟာမျှ မပြီး

ဤမျှ များပြားလှ၍ ဤမျှ သားနားလှပါသော သံဃာ့ပရိသတ်ကြီးကို နောက်တစ်ကြိမ် ဖူးတွေ့ရဖို့ အလွန်ခဲယဉ်းပေးလိမ့်မည်၊ သို့ဖြစ်၍ အခွင့်ကြုံခိုက်တွင် တောင်းပန်ချက်အရ (၁) မြောင်းမြမြို့ ပဋ္ဌောတာရုံတိုက်ဟောင်း ဆရာတော် ဦးဉာဏိက၊ (၂) မြောင်းမြမြို့ ပဋ္ဌောတာရုံတိုက်သစ် ဆရာတော် ဦးကုမာရနှင့် (၃) မြင်းမူမြို့နယ် ထီးဆောင်းရွာတွင် သီတင်းသုံးနေသော (မဟာဂန္ဓာရုံဆရာတော်၏ လက်ဟောင်း တပည့်ကြီး တစ်ပါးဖြစ်သော) ဆရာတော် ဦးစက္ကပါလတို့က (ညီငယ်များအား အစ်ကိုကြီးတို့က ဩဝါဒပေးသည့်ပမာ) အသီးသီး ဩဝါဒပေးကြပါသည်။

ထိုတွင် ထီးဆောင်းဆရာတော် ဦးစက္ကပါလ ဩဝါဒပေးရာ၌ ခန္ဓာကိုယ်က ပိန်ပိန်ပါးပါး၊ အရပ်တော်ကြီးက ထွားထွား၊ ၇ ပေခန့် မြင့်မားသဖြင့် သံဃာ့ပရိသတ် ထိပ်ဖျားက မားမားကြီး ရပ်ကာ အောက်ပါအတိုင်း မိန့်ပါတော့သည်။

"ယခုအခါ ကျေးဇူးရှင် ဆရာတော်ဘုရားကြီး မရှိတော့ပြီဖြစ်၍ ကျန်ရစ်သော တိုက်တာကြီးနဲ့ သာသနာပြုလုပ်ငန်း လက်ငုပ်များကို ကျန်ရစ်သော တပည့်တို့က ဆက်လက် ထိန်းသိမ်းကြရပါမယ်၊ ထိုကဲ့သို့ ထိန်းသိမ်းတဲ့ နေရာမှာ ညီညွတ်ကြဖို့၊ ဥမကွဲ သိုက်မပျက် ဖြစ်ကြဖို့ အရေးကြီးပါတယ်၊ အဲဒီလို ဖြစ်နိုင်အောင် ဂုဏ်အင်္ဂါတို့ကတော့ တစ်ကိုယ်တော် အစွမ်းပြတဲ့ မာနမျိုးကို ရှောင်ကြဖို့ပါပဲ၊ "ဒီကိစ္စဟာ ငါမပါရင် မပြီးဘူး၊ ငါသာ စွမ်းနိုင်တယ်၊ သူမပါရင် မပြီးဘူး၊ သူသာ စွမ်းနိုင်တယ်"ဆိုတဲ့ တစ်ကိုယ်တော် အစွမ်းပြတဲ့ မာနတံခွန်မျိုးကို ဆိုလိုတာပါ၊ အဲဒီလို မာနစွမ်းကလေးတွေ ပယ်ဖျောက်ပြီး "ငါ့အစွမ်း" "သူ့အစွမ်း" "မင့်အစွမ်း"လို့ မခွဲခြမ်းဘဲ ငါရော သူရော မင်းရော စုပေါင်းလုပ်ကိုင်တဲ့နည်း၊ သူ့ငန်း ကိုယ့်ငန်း မခွဲခြားဘဲ အစွမ်းရှိသမျှ မခိုမကပ် ဆောင်ရွက်တဲ့နည်းမျိုးကို ကျင့်သုံးကြရပါမယ်"ဤသို့စသည်ဖြင့် စုံစုံလင်လင် သတိပေးတိုက်တွန်းပြီးလျှင် အောက်ပါကဗျာလင်္ကာကလေးကို တိုင်ပေး၏၊ အားလုံးက လိုက်၍ ဆိုကြရ မှတ်သားကြရသည်။

**၁။ ငါမပါ, ဘယ်ဟာမျှ မပြီး၊**
**ငါ့ချည်းတော့လည်း ဘယ်ဟာမပြီး။**
**၂။ သူမပါ, ဘယ်ဟာမျှ မပြီး၊**
**သူ့ချည်းတော့လည်း ဘယ်ဟာမပြီး။**
**၃။ မင်းမပါ, ဘယ်ဟာမျှ မပြီး၊**
**မင်းချည်းတော့လည်း ဘယ်ဟာမပြီး။**
**၄။ မင်း သူ ငါ ညီညာစုံမှ,**
**အလုံးစုံ အကုန်ပြီး, ပေါင်းကြစုစည်း။**

သူ့ကဗျာကလေးသည်ကြားရရုံမျှဖြင့် အဓိပ္ပာယ်လည်း ပေါ်လွင်လှ၏၊ ခဏချက်ချင်းပင် ပရိသတ်၏ နှလုံးသားသို့ ခိုဝင်၍ လျှာဖျားပေါ်တွင် ချိုလွင်နေတော့သည်။

## သင်္ဂြိုဟ်မည့်နေရာ ရွေးချယ်ကြခြင်း
### မည်သည့်ဘက်ကို ဦးခေါင်းထားရမငဲ

"အမရပူရမှာ မီးသင်္ဂြိုဟ်မည်"ဆိုတော့ ဘယ်နေရာမှာ သင်္ဂြိုဟ်မည်လဲ၊ ဘယ်နေရာဟာ သင့်တော်မလဲ၊ ဝေခွဲ စိစစ်ကြရ၏၊ နေရာရွေးချယ်ထားကြရသည်၊ အများ၏ ဆန္ဒအရ ညှိနှိုင်းကြ၍ ဆရာတော် အမြဲသီတင်းသုံးသော သစ်သားစံကျောင်းကလေး၏ အရှေ့ဘက် (အုတ်တံတိုင်း အပြင်ဘက်) တည့်တည့်တွင် သတ်မှတ်ကြ၏၊ အကွာအဝေးကိုပါ အနေတော်အောင် သတ်မှတ်ကြရသည်။

ဤသို့သတ်မှတ်ပြီးလျှင် မြေနေရာကို သန့်ရှင်း၍ သဲဖြူခင်းပြီးနောက် အလျားပေ ၄၀, အနံ ပေ ၄၀

ပတ်လည်မျှ ရာဇမတ်ကာလိုက်ကြ၏၊ ထိုအတွင်းမှာ မီးသင်္ဂြိုဟ်ရာ၌ ရုပ်အလောင်းထားရန် "ကြက်ချေးခံ" ဟု ခေါ်သော အုတ်ပလ္လင် အသစ်တစ်ခု တည်ဆောက်တော့မည် ဖြစ်သည်။

တည်ဆောက်မည် ပြုခါမှ "မည်သည့်ဘက်ကို ခေါင်းထား၍ သင်္ဂြိုဟ်ကြမည်နည်း၊ အုတ်ပလ္လင် အလျားကို မည်သည့်ဘက်တွင် ခေါင်းထား၍ တည်ဆောက်ရမည်နည်း"ဟု အမေးပြဿနာတစ်ခု ပေါ်လာပြန်တော့သည်။

အရှေ့ဘက်ကို ဦးခေါင်းထားလျှင် အင်းရေပြင်ကြီး၏ အရှေ့ဘက်ကမ်းစပ်၌ ကျောက်တော်ကြီးဘုရား တည်ရှိ၍ ဘုရားကို ဦးညွတ်ရာ ရောက်၏၊ သို့သော် ကျောင်းတိုက်ကို ခြေကန်သလို ဖြစ်နေ၏၊ မြောက်ဘက်ကို ဦးခေါင်းထားလျှင် အင်းရေပြင်ကြီး၏ မြောက်ဘက်ကမ်းစပ်၌ အဓိကရ ပုထိုးတော်ကြီး ဘုရား တည်ရှိ၏၊ ဘုရားကိုပင် ဦးညွတ်ရာ ရောက်သည်၊ မည်သည့်ဘက်ကို ထားရမည်နည်း။

ဂိုဏ်းဦးစီးဆရာတော်ဘုရားကြီးများထံ သွား၍ အဆုံးအဖြတ် ခံကြရပြန်၏၊ ထိုအခါ ဆရာတော်ကြီးများက... "ဘုရားရှင်ကိုယ်တော်မြတ်လည်း မြောက်ဘက်ကို ဦးခေါင်းထားပြီးမှ ပရိနိဗ္ဗာန်စံတာ ပါပဲ၊ မြောက်ဘက်ကိုပဲ ဦးခေါင်းထားပြီး သင်္ဂြိုဟ်ပါ" ဟူ၍ အမိန့်ချမှတ်တော်မူကြ၏။

ထိုအခါမှ "ကြက်ချေးခံ"အုတ်ပလ္လင်ကိုလည်း မြောက်ဘက်ကို ဦးခေါင်းထားကာ အရှည်အလျား တည်ဆောက်ကြရသည်၊ ရင်စို့ခန့်မျှ မြင့်မည်ဖြစ်၏၊ ထိုအပေါ်မှာ ရုပ်အလောင်းတင်၍ မီးသင်္ဂြိုဟ်ရန် ဖြစ်သည်။

## စကားလုံးများ၏ အတွင်းသား ဆိုလိုရင်း

ဆရာတော်ကြီး သက်တော်ထင်ရှားရှိစဉ်ကပင် သံဃာတော်များအား ဆွမ်းကပ်ရန် ရက်တောင်းထားကြသော ဒါယကာ ဒါယိကာမများ ရှိကြ၏၊ ဆရာတော်ကြီး ပျံလွန်တော်မူသော်လည်း သူတို့ တောင်းထားသော ရက်များကျရာနေ့တို့တွင် ကပ်လှူသွားကြသည်၊ နတ်တော်လပြည့်ကျော် ၇ ရက်နေ့ နံနက် ကပ်လှူကြမည့် အလှူရှင်တို့ကား ရွှေဘိုမြို့ ချီပါရပ်မှ ဦးထွန်းသင်+ဒေါ်ငွေထိန်တို့ ဖြစ်ကြ၏၊ အစဉ်အလာအရ ဆွမ်းစားကျောင်းကြီးအောက်ထပ်မှာ ဆွမ်းကပ်ပြီးကြပြီဆိုလျှင် အလှူရှင်များနှင့် မိတ်သင်္ဂဟများအားလုံး ဆွမ်းစားကျောင်းကြီးအပေါ်ထပ်မှာ စုကြရမြဲ ဖြစ်သည်၊ ထိုအပေါ်ထပ်မှာ ဆွမ်းအနုမောဒနာနှင့် သြဝါဒပေးပြီးလျှင် ရေစက်ချ အမျှပေးဝေမြဲ ဖြစ်၏။

ထိုနေ့က ဆွမ်းအလှူရှင် ဒါယကာ ဒါယိကာမတို့က ပဓာနနာယကဆရာတော် ဦးစန္ဒောဘာသအား ထူးထူးခြားခြား လာ၍လျှောက်ထားကြသည်။

**အလှူ့ရှင်များ** ။ ။ဒီကနေ့မနက် ဆွမ်းအနုမောဒနာတရားနဲ့ ရေစက်ချ အမျှဝေမှုကိစ္စကို ခါတိုင်းလို ဆွမ်းစားကျောင်းကြီး အပေါ်ထပ်မှာ မဟုတ်ဘဲ ဆရာတော်ဘုရားကြီး၏ ရုပ်အလောင်းထားရာ စံကျောင်းသိမ်ကြီးပေါ်မှာ ချီးမြှင့်စေလိုပါတယ်ဘုရား။"

**နာယကဆရာတော်** ။ ။ "တခြားရည်ရွယ်ချက် မရှိဘူးဆိုရင်တော့ ခွင့်လွှတ် လိုက်လျောနိုင်ပါတယ်၊ ရည်ရွယ်ချက်တစ်မျိုးမျိုးပါတယ်ဆိုရင်တော့ ဘုန်းကြီးတို့ ဆရာတော်အတွက် မလိုအပ်လို့ အပိုပါပဲ"။

**အလှူ့ရှင်များ** ။ ။ "တင်ပါ့ဘုရား, ကျေနပ်ပါတယ်၊ ဒီလိုဆိုရင်လဲ အစဉ်အလာမဖျက်ဘဲ ခါတိုင်းလိုပဲ ဆွမ်းစားကျောင်းကြီးအပေါ်မှာ ဆောင်ရွက် ချီးမြှင့်ပေးတော်မူပါဘုရား။

## ဆွမ်းသွတ်ကုသိုလ်ကို အားကိုးမနေပါ

အလှူ့ရှင်များနှင့် နာယကဆရာတော်၏ အမေးအဖြေစကားလုံးတို့သည် တခြားသူတို့အဖို့ အဓိပ္ပာယ် မရှိသလို ဖြစ်ကောင်း ဖြစ်ပါလိမ့်မည်၊ စင်စစ်ကား အဓိပ္ပာယ်အလွန်ရှိပါသည်၊ ဆိုလိုသည်မှာ အလှူ့ရှင်များ အနေဖြင့် ဆရာတော်ဘုရားကြီး သုဂတိဘုံဘဝရရှိစေချင်၍ အကူအညီ အထောက်အပံ့ ဖြစ်အောင် "ဆွမ်းသွတ်အမျှပေးဝေလိုသည့်သဘော" လျှောက်ထားခြင်း ဖြစ်၏။

ဤစကားရိပ်ကို နာယကဆရာတော်က ချက်ချင်း သိလိုက်၏၊ ထို့ကြောင့် "ဘုန်းကြီးတို့ဆရာတော်ကြီးက ဤသို့ ကူပံ့ရမည့်ပုဂ္ဂိုလ်မျိုး မဟုတ်ပါ၊ သူ့ကုသိုလ်တွေနှင့် သူပင် မကုန်နိုင်အောင် လုံလောက်နေသည် ဖြစ်ပါသည်။"

ဆိုလိုရင်းမှာ... "ဆွမ်းသွတ်၍ အမျှဝေသည့် ကုသိုလ်ကလေးလောက်ကို အားထားမျှော်ကိုးနေရသူ မဟုတ်ပါ၊ စောစောကပင် ကြိုတင်၍ ကုသိုလ်အယဉ်တွေ လုံလောက်အောင် ဆည်းပူးထားသော ပုဂ္ဂိုလ်မြတ် ဖြစ်ပါသည်၊ ထို့ကြောင့် မလိုအပ်တော့ပါ၊ (ဆွမ်းသွတ်ဖို့ မလိုအပ်တော့ပါ)"ဟု ဆိုလိုရင်း ဖြစ်၏။

ဤအဓိပ္ပာယ်တို့ကို ဆိုလိုလျက် စကားလုံးတို့ကို တိတိကျကျ မဖွင့်ဟကြဘဲ တစ်ဦးနှင့် တစ်ဦး ဝေါဟာရသိမ်မွေ့စွာဖြင့် လျှောက်ထားခြင်း၊ ဖြေကြားခြင်း ပြုနေကြသည်။

## နက်ဖြန်လုပ်ရမည့် အလုပ်ကို ယခုလုပ်ပါ

မှန်ပါသည်၊ ဤဆရာတော်ကြီးက အရာရာတွင် ကြိုတင်ပြင်ဆင်မှု ပြုလုပ်သော အလေ့ အမြဲရှိပါ၏၊ "နောက်ကျသွားသည်, အံချော်သွားသည်, မေ့သွားသည်, အချိန်မမီလိုက်"ဟူသော ဝေါဟာရများ သူ့မှာ မရှိပါ၊ အရာရာတွင် သူက အမြဲတမ်း အသင့်ဖြစ်သည်၊ တပည့်တို့ကိုလည်း "နက်ဖြန်လုပ်ရမည့် အလုပ်ကို ယနေ့ လုပ်ပါ၊ ယနေ့ လုပ်ရမည့် အလုပ်ကို ယခု လုပ်ပါ" မကြာခဏ သတိပေးတတ်၏၊ ထို့ကြောင့် ဆရာတော်ဘုရားကြီး ကိုယ်တိုင်ပင် တစ်ခါက... "ကြိုတင်မှု"ဆိုတာ အရာရာမှာ ရှိရတယ်၊ စား ဝတ် နေရေးအတွက်, အသိဉာဏ်မြင့်မားရေး အတွက်, ဘဝအဆင့်အတန်း မနိမ့်ရေးအတွက်, နောက်ဆုံး သေဖို့အတွက်ပါ ကြိုတင်ပြင်ဆင်မှု ရှိရတယ်။

သေပြီးတဲ့နောက် သံသရာအတွက်လဲ ခုနှယ်က ပြင်ထားရတယ်၊ ဘုန်းကြီးကတော့ ပြင်ထားတာပဲ၊ သေခါမှ ဆွမ်းသွတ်ပြီး သူများက ပေးတဲ့ အမျှကို အားကိုး မနေဘူး၊ အဲဒါက မသေချာဘူး၊ ကိုယ့်ဘာသာကိုယ် လုံလောက်အောင် ကြိုတင်ဆည်းပူးထားတာက သေချာတယ်"ဟူ၍ အမိန့်ရှိဖူးသည်။

## ရုပ်ကလာပ်တော် ပင့်ဆောင်မည့် လမ်းတစ်လျှောက် ရှင်းလင်းခြင်း မည်သည့်လမ်းမှ မည်သို့ ကြွမည်နည်း

ရုပ်ကလာပ်တော် ပင့်ဆောင်မည့် လမ်းကို စီမံသတ်မှတ်ကြရ၏၊ စံကျောင်းတော်မှ ပင့်၍ ကျောင်းတိုက်၏ အနောက်ပေါက်ဆီသို့ သွား, အပေါက်မှထွက်, တောင်ဘက်ကို လှည့်, ဘုရားနီကြီး အထိလာ, အရှေ့သို့ တက်, မဟာဂန္ဓာရုံကျောင်းတိုက်၏ တောင်ဘက်တွင်ရှိသော လမ်းမကြီးအတိုင်း အရှေ့သို့ သွား, တောင်သမန်အင်းစောင်းသို့ ရောက်။

ထို့နောက် မြောက်စူးစူးသို့ တစ်ဖန်လှည့်, ရှေ့ဆက်လက်သွား, သတ်မှတ်ထားသော မီးသဂြိုဟ်မည့် နေရာသို့ ရောက်ရမည်၊... ဤသို့အားဖြင့် ကျောင်းတိုက်ကြီးကို လက်ဝဲရစ်ကာ သတ်မှတ်ထားသော နေရာသို့ ကြွရမည်ဖြစ်သည်၊ ဤခရီး တစ်လျှောက် ပေကြိုးဖြင့် တိုင်းသောအခါ ပေပေါင်း ၂၅၀၀ ကျော်ကျော်မျှ ရှိပေသည်။

ထိုတွင် ပေ ၁၀၀ လျှင် တစ်မှတ်တိုင်, ပေ ၁၀၀ လျှင် တစ်မှတ်တိုင် ငုတ်စိုက်၍ ကပ်ပြားကပ်ပြီး ပေ ၁၀၀, ပေ ၂၀၀, ပေ ၃၀၀ စသည် ရေးထိုးထား၏၊ ကြွမည့် လမ်းမတစ်လျှောက် ဆူးငြောင့်ခလုတ်များ ရှင်းလင်းထားသည်၊ လမ်းဘေးဝဲယာတို့တွင် ဝါးလုံးတိုင်များ စိုက်ထူထားကာ သာသနာ့အလံများ (စက္ကူအလံ) ကလေးများ သွယ်တန်းထားကြ၏။

ထို့နောက် လမ်းမကြီး တစ်လျှောက် ဖုံမထအောင် မီးသတ်ကားကြီးများဖြင့် ရေတွေ ပက်ဖျန်းထားကြသည်၊ လုပ်ငန်းရပ်အားလုံးကို သူ့တာဝန်နှင့်သူ ကိုယ်စီကိုယ်င ဆောင်ရွက်ကြသဖြင့် အံ့ဩဖွယ်ဖြစ်ရတော့၏။

# အန္တိမဈာပန (နောက်ဆုံး မီးသဂြိုဟ်သည့်နေ့)

## နောက်ဆုံးဓါသမယ ဂါရဝပြုပွဲ

၁၃၃၉ ခု နတ်တော်လပြည့်ကျော် ၈ ရက် (၁၉၇၈ ခု ဇန်နဝါရီလ ၂ ရက်)နေ့ကား ဆရာတော်၏ ရုပ်အလောင်းကို မီးသဂြိုဟ်ရန် နောက်ဆုံးနေ့ပင် ဖြစ်သည်၊ နံနက် အရုဏ်ဆွမ်းစားအပြီး ထုံးစံအတိုင်း ဆွမ်းစားကျောင်းကြီး အပေါ်ထပ် စည်းဝေးညီမူရာ ခန်းမကြီး၌ သံဃာအားလုံး စုရုံးစည်းဝေးလိုက်ကြ၏၊ နာယက ဆရာတော်များက ယနေ့ဆောင်ရွက်ကြရမည့် အစီအစဉ်များကို ပြောပြတော်မူကြသည်၊ ယနေ့နံနက်ပိုင်း၌ ကျေးဇူးရှင်ဆရာတော်ဘုရား၏ ဂုဏ်တော်အနန္တကို မှန်းဆ တမ်းတ၍ နောက်ဆုံး ဂါရဝ ပြုကြဖို့ အစီအစဉ်ရှိကြောင်း၊ အချိန်ရောက်၍ အချက်ပေးသောအခါ အားလုံး စုကြရမည်ဖြစ်ကြောင်း ပြောပြထားသည်။

ထို့နောက် အချိန်ရောက်၍ ကြေးဝိုင်းကြီးကို ထိုးလိုက်သောအခါသံဃာတော်အားလုံး သင်္ကန်းကို လက်ကတော့တင်၍ နေရာထိုင်ကို ပခုံးပေါ်တင်၍ တိတ်ဆိတ်ငြိမ်သက်စွာ စနစ်တကျ ရှေ့နောက်စီတန်း၍ စံကျောင်းကြီးဆီသို့ လာနေကြသည်၊ ဤသည့် မြင်ကွင်းကို စာရေးဆရာ ဒါရိုက်တာဦးသုခ ခေါင်းဆောင်သော ကင်မရာအဖွဲ့က ရုပ်ရှင်ရိုက်၍ မှတ်တမ်းတင်ကြ၏။

စံကျောင်းကြီးသို့ ရောက်သောအခါ သင့်တော်ရာအရပ်၌ ဖိနပ်တို့ကို စီ၍ ချွတ်ကြပြီးလျှင် လက်အုပ်ကလေးများကို ချီလျက် ခန်းမကြီးအတွင်းသို့ ဝင်လာကြပုံ, သင့်ရာ သင့်ရာ ဌာန၌ နေရာယူကြပုံတို့ကိုပါ အစုံအလင် ရိုက်ကူးထားကြ၏၊ အားလုံး အစုံအလင် နေရာယူမိကြသောအခါ နာယက ဆရာတော်တစ်ပါးက...' "ဂုဏ်တော်တို့ကို မှန်းဆ၍ လက်အုပ်ချီမိုး ရှိခိုး ကန်တော့ကြမယ် ဘုရား"ဟု လျှောက်လိုက်သည်။

ထိုအခါ သံဃာတော်အားလုံး နဖူးထက်တွင် လက်အုပ်တင်၍ ဦးတင်သိမ့်သိမ့် ခေါင်းကို နိမ့်လျက် အောက်သို့ ငြိမ့်၍ သွားကြ၏၊ ကြမ်းပြင်ရောက်မှ နဖူးစကို မ၍တင်ကာ ခေါင်းထောင်၍ လာကြပြန်သည်၊ ဤသို့လျှင် သုံးကြိမ် သုံးဖန် အပြန်ပြန် အထပ်ထပ် လေးမြတ်ကော်ရော် ပူဇော်သည်တို့မှာ ဖလင်ပြား မြင်ကွင်းတွင် အထင်းသား ပေါ်နေကြတော့၏၊ ဤသည်ကို ဒါရိုက်တာ ဦးသုခက ရင်သပ်ရှုမော ဖြစ်ရသည်။

"ကျွန်တော်ဖြင့်ဗျာ, တစ်သက်နဲ့တစ်ကိုယ် တွေ့ပဲ မတွေ့ဘူးပါ၊ ဦးချလိုက်တဲ့အခါ လယ်ကွင်းထဲက ရွှေဝါရောင် အနှံ့ပေါက်တဲ့ ကောက်ပင်တွေလိုပဲ၊ လေတိုက်တဲ့အခါ တစ်ပြိုင်နက် ငြိမ့်ခနဲ နိမ့်သွားပြီး လေငြိမ်တော့ မတ်ခနဲ တစ်ပြိုင်နက် ပြန်ပြီး ခေါင်းထောင်လာကြသလို ညီပဲညီနိုင်လွန်းလှပါတယ်ဗျာ၊ တကယ်ပဲ သံဃာတွေ တစ်ထောင်ကျော်လောက်များပါလျက် ဘာ့ကြောင့်များ ဒီလောက် ညီနေရပါသလဲ၊ ဘယ်လိုများ လုပ်ထားလို့ပါလဲ၊ ကျွန်တော့်ရင်ထဲမှာလဲ ကြည်ညိုစိတ်တွေဟာ တစ်ခါတည်း လှိုင်းထသွားတယ်ဗျာ၊ ပြီးတော့ မျက်ရည်တွေလဲ စို့လာမိတယ်၊ ရင်ထဲလဲ ဆို့လာမိတယ်၊ ဒီကျောင်းတိုက်ထဲမှာ မျက်ရည်စို့ရတာ ၂ ကြိမ်ရှိသွားပြီ။

ဟိုတစ်ချိန်တုန်းက ရုပ်ရှင်မင်းသား ကိုဇေယျကြီးနဲ့ ဒီကျောင်းတိုက်ကြီးထဲကို အဦးဆုံး ရောက်တုန်းက တစ်ကြိမ်, အခုတစ်ကြိမ်ပေါ့၊ ဟိုတုန်းကတော့ ဒီကျောင်းတိုက်ကြီးရဲ့ သာယာသန့်ရှင်းပုံ, တောအုပ်မြိုင်တန်းကြီးလို ပန်းမန်သစ်ပင်တွေနဲ့ အုပ်ဆိုင်း ညို့မှိုင်းနေပုံကို မြင်ရတဲ့အတွက် လွမ်းစရာ ကောင်းလို့ မျက်ရည်စို့ခဲ့ရတာ၊ ကျွန်တော်သာလားလို့ဆိုတော့ မဟုတ်သေးဘူး၊ ကိုဇေယျကြီးကို လှမ်းကြည့်တော့ သူလဲ ငိုင်ငိုင်ကြီးလုပ်နေပြီး မျက်ရည်တွေ ကျနေတယ်၊ အဲဒီတုန်းကတော့ ဝမ်းသာလို့ လွမ်းစရာကြီး ကျတဲ့ မျက်ရည်၊ အခု တစ်ကြိမ်ကတော့ ဆရာတော်ကြီး ပျံလွန်တော်မူလို့ ဆုံးရှုံးရတာရော, သံဃာတော်တွေရဲ့ ညီညွတ် ငြိမ်သက်မှုကိုရော တွေ့ရလို့ ရောပြီး စို့ရတဲ့ မျက်ရည်"ဟူ၍ သူတို့ချင်း ပြောရသည်အထိ အံ့သြရလေ၏၊ တစ်ထောင်ကျော်မျှသော သံဃာ့ပရိသတ်ကြီး၏ မြင်ကွင်းကား ရင်တွင်းသို့ ထိလောက်အောင် ဖြစ်ခဲ့ရလေသည်။

## ညီညာဖြဖြ ကြွလာကြ၍
## နံ့သာထင်းဖြင့် သင်္ဂြိုဟ်ကြမည်

ထိုနေ့ကား နောက်ဆုံးနေ့ ဖြစ်၍ ရှင်ရောလူပါ ကျောင်းတိုက်ကြီးတစ်ခုလုံး ပြည့်ကြပ်နေတော့သည်၊ နံနက်ပိုင်းမှ စ၍ အနယ်နယ် အရပ်ရပ်မှ ပရိသတ်တို့ပါ ဝိုင်းအုံ ရောက်လာကြတော့၏၊ များပြားလှသော အဆောက်အအုံတို့၌ မဆံ့၍ ကျောင်းတိုက်အတွင်း သစ်ပင်တွေအောက် မြေပြင်အနှံ့ ပရိသတ်တို့ဖြင့် ပြန့်နေကြသည်။

စံကျောင်းတော်ကြီးမှ ဆရာတော်ဘုရားကြီး၏ တရားတိပ်ခွေကို အမြဲလို ဖွင့်၍ထားရာ လာလာသမျှ ဒါယကာ ဒါယိကာမတို့အား ဆရာတော်ဘုရားကြီးက ဆီး၍ တရားဟောနေသလို ထင်ရတော့၏၊ ဤပရိသတ်တို့အထဲမှ ဆရာတော်ကြီးအပေါ် ကြည်ညိုသဒ္ဓါပွား၍ "အလှူငွေများ ထည့်ပါရစေ"ဟု တောင်းဆိုသူတို့ကလည်း အများပင်၊ ထိုအခါ...

"ငွေကြေးကို အလှူမခံပါ၊ ကြည်ညိုသဒ္ဓါပွားပါလျှင် နံ့သာထင်းတို့ကိုသာ လှူကြပါ၊ ဆရာတော်ကြီး၏ ရုပ်ကလာပ်ကို နံ့သာထင်းတို့ဖြင့် မီးသင်္ဂြိုဟ်ကြပါမည်"ဟု ဆိုသောအခါ အချို့က အိမ်သို့ ပြန်ယူကြသည်၊ အချို့က ဈေးသို့ သွား၍ ဝယ်ကြ၏၊ နံ့သာဖြူ၊ နံ့သာနီ၊ ကရမက်၊ သနပ်ခါးတုံးတို့ ဖြစ်ကြသည်၊ သဒ္ဓါအား ရှိသမျှ လှူကြသည်၊ နံ့သာထင်းလက်ခံရာဌာန၌ ထင်းပုံကြီး မို့မောက်လာ၏၊ နောက်ဆုံးတွင် စုရုံးလိုက်ရာ ရနံ့သင်းသည့် နံ့သာထင်းတို့ ၂၄ တင်းမျှ ရရှိပါလေသည်။

နေ့လယ် ၁၂ နာရီ ထိုးသောအခါ ပြုလုပ်ကျင်းပမည့် ဈာပနအခမ်းအနားအတွက် မန္တလေးမြို့ တိုင်းသာသနာရေးဦးစီးဌာနမှူး ဦးလှက အစီအစဉ်ကို စ၍ ကြေညာတော့၏၊ ၁၂ နာရီ မိနစ် ၃၀ တွင် အခမ်းအနားသဘင် စတင်ဖွင့်လှစ်သည်၊ ထို့နောက်

၁။ ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိအကျဉ်းချုပ်စာတမ်းကို စစ်ကိုင်းတောင်ရိုး ဝေဇယန္တာ ဦးမဟောသဓက ဖတ်ကြားခြင်း၊
၂။ စစ်ကိုင်း ဥမင်ကိုးဆယ် ဦးဉာဏာဝရက သံဝေဇနီယ ၃ ဂါထာကို ဖတ်ကြားခြင်း၊
၃။ အမရပူရ မဟာဂန္ဓာရုံ ဦးနန္ဒာသဘက သံဝေဇနီယ ၃ ဂါထာကို ဖတ်ကြားခြင်း၊
၄။ မန္တလေး ဝိသုဒ္ဓါရုံ ဦးဝေဒါနန္ဒ က သံဝေဇနီယ ၃ ဂါထာကို ဖတ်ကြားခြင်း၊
၅။ မန္တလေးအဘယာရာမ အရှင်သီလာနန္ဒာဘိဝံသက "ကျမ်းပြုဆရာတော်၏ ဘဝကို သုံးသပ်ပူဇော်ခြင်း"တို့ဖြင့် ပူဇော်ကြသည်။

ထို့နောက် သက်တော် ၉၀ ကျော် ရွှေကျင်သာသနာပိုင် ဆရာတော်ဘုရားကြီးထံမှ ဒါယကာ ဒါယိကာမတို့က သီလခံယူကြခြင်း၊ တွဲဖက် ရွှေကျင်သာသနာပိုင် ရွှေဟသာဆရာတော်ဘုရားကြီးထံမှ သြဝါဒခံယူခြင်း၊ တွဲဖက် ရွှေကျင်သာသနာပိုင် ပိုက်ကျုံးဆရာတော်ကြီးက ရေစက်ချပေး၍ သတ္တဝါ အပေါင်းတို့အား အမျှပေးဝေခြင်းများ ပြုလုပ်ကြပြီး နောက် အခမ်းအနားကို ပြီးဆုံးစေသည်။

## ထေရ်ဘုန်းရှင်ကို ရွှေပခုံးယာဉ်ဖြင့် သယ်

စံကျောင်းတော်ခန်းမကြီး၌ ဈာပနအခမ်းအနားများ ကျင်းပနေစဉ်တွင် မဟာဂန္ဓာရုံတိုက်အတွင်းမှ တပည့် သံဃာတော်များသည် "ယနေ့ တို့ဆရာထေရ်ဘုန်းသခင်ကို အမြတ်တနိုး မိမိတို့ရဲ့ ရွှေပခုံးယာဉ်ဖြင့် သယ်ယူပို့ဆောင်ကြမည်"ဟူသော စိတ်ဓာတ် ကိုယ်စီကိန်းဝပ်လျက် ရှိကြ၏။

ထို့ကြောင့် တစ်ဖွဲ့လျှင် အပါး ၂၀ စီ စနစ်တကျ ဖွဲ့ပေးထားသော အဖွဲ့များသည် ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်ကြွမည့် လမ်းတစ်လျှောက်သို့ ကြိုတင်သွားနှင့်နေကြပြီ၊ ရောက်သောအခါ မိမိတို့ကျရာ ကျရာ (အက္ခရာစဉ်အတိုင်း) ပေ ၁၀၀ မှတ်တိုင်တွင် တန့်နား၍ လမ်းဘေးဝဲယာများက တစ်ဖက်လျှင် ၁၀ ပါးစီ ရပ်၍ ရပ်၍ စောင့်နေကြသည်၊ ပေ ၁၀၀ ခရီးသို့ ရောက်တိုင်း သံဃာအပါး ၂၀ ရပ်လျက် စောင့်နေကြသည်ကို တွေ့မြင်ရ၏၊ လမ်းတစ်လျှောက်ကို ပလစအမှတ် ၂ အင်ဂျင်နီယာတပ်က ရှင်းလင်းကုသိုလ် ပြုကြသည်၊ ဤသို့ ပခုံးယာဉ်ဖြင့် သယ်ဆောင်ကြမည့် အဖွဲ့များတွင် လူဒါယကာ

ဒါယိကာမ တစ်ဦးတစ်ယောက်မျှ မပါရ၊ ရဟန်းသံဃာများချည်းသာ သက်သက်ဖွဲ့စည်းထားသည်၊ လူပုဂ္ဂိုလ်များ မပါရခြင်းမှာ အကြောင်းရှိပါသည်၊ အချို့က ဤကိစ္စမျိုး၌ အပျော်တမ်းအဖြစ် ရုပ်ကလာပ်ကို ကစားတတ်ကြ၏၊ ဤသို့ ကစားပါလျှင် သံဝေဂဉာဏ် မပွားနိုင်ဘဲ ပျော်ပွဲကြီးအလား ဖြစ်သွားနိုင်ပါသည်၊ တစ်ဖန် အချို့ပုဂ္ဂိုလ်များကျပြန်တော့လည်း ရဟန်းသံဃာများလို တစ်မိန့်တည်း တစ်သြဇာတည်း ဖြစ်ချင်မှ ဖြစ်မည်၊ မဖြစ်လျှင် မိမိတို့ မှန်းထားသော ပုံအသွင်သို့ မဝင်ဘဲ ရှိချိမ့်မည်၊ ဤကိစ္စမျိုး၌ အတွေ့အကြုံဗဟုသုတ များစွာ ရှိကြဖူး၏၊ စနစ်တကျ မည်မျှပင် စီမံထားကြသော်လည်း ဆရာတော်နှင့် နီးစပ်သူ ဆွေမျိုး ဒါယက ဒါယိကာမတို့က အစီအစဉ် ဖောက်ဖျက်၍ "ဒါကလေးတော့ နောက်ဆုံးအနေနဲ့ ခွင့်လွှတ်ပါ"ဆိုပြီး ဇွတ်ဝင်ထမ်းတတ်ကြ၏၊ ထိုအခါ သူတို့ကြည်ညိုပါသည်ဆိုသော ကိစ္စကြောင့် အစီအစဉ်တွေ ကမောက်ကမ ဖြစ်ကြရတော့သည်၊ သူတို့ကား ဘယ်လောက် ကြည်ညိုပါသနည်း၊ ဤသို့သော ကိစ္စမျိုး မဖြစ်စေရန် သံဃာများချည်း ဖွဲ့စည်းထားခြင်း ဖြစ်ပေသည်။



ထေရ်ဘုန်းရှင်ကို ရွှေပန်းယာဉ်ဖြင့် သယ်၍ ပင့်ဆောင်လာကြစဉ်

## ရုပ်ကလာပ်တော်ကို ပင့်ဆောင်လာကြပြီ

### ရင်တွင်းအပြည့် လှိုင်းထရသော မြင်ကွင်းကြီး

နေ့လယ် ၁ နာရီအချိန်တွင် ရုပ်ကလာပ်တော်ကို အပူဇော်ခံရာ ခုတင်ပေါ်မှ ကျွန်းခေါင်းကြီးအတွင်းသို့ ပင့်ဆောင်သွင်းကြ၏၊ ပင့်ဆောင်ရာတွင်လည်း နာယကဆရာတော်ကြီးများနှင့် သတ်မှတ်ထားသော တပည့်ကြီးများ အပါး ၂၀ ကသာ ပင့်ဆောင် ထည့်သွင်းကြရသည်။

ပြီးလျှင် စံကျောင်းကြီးပေါ်မှ အပြင်သို့ ထုတ်ကာ တရွေ့ရွေ့ ပင့်ဆောင်လာကြ၏၊ ပေ ၁၀၀ အကွာ အဝေးသို့ ရောက်အောင် ထိုအဖွဲ့၏ တာဝန်ဖြစ်သည်၊ အပါး ၂၀၏ ပခုံးထက်မှ တရွေ့ရွေ့ကြွလာ၏၊ များပြားလှသော ပရိသတ်ကြီး၏ မျက်လုံးများသည် ဆရာတော်၏ ရုပ်ကလာပ်ဆီသို့ စူးစိုက်စွာ ဝိုင်းအုံစုပြုံရောက်နေကြသည်။

လမ်းဘေးဝဲယာမှ ပိတ်သဲထူထပ် ပြည့်ညပ်နေသော ပရိသတ်ကြီး၏ လက်အုပ်အဖူးအငုံတို့ဖြင့် ပူဇော်မှုကို ခံယူရင်း တဖြည်းဖြည်း ကြွလာနေသည်၊ ပရိသတ်ကြီး၏ မျက်လုံးအိမ်များတွင်ကား မျက်ရည်များ တစမ်းစမ်းနှင့် မခန်းနိုင်အောင် ရှိတော့၏၊ မျက်နှာများအားလုံးလည်း ပူဟန်ပျိုးကာ ညှိုးလျက်နေကြသည်။

## ကြွလာသော အခမ်းအနား အစီအစဉ်များမှာ

၁။ ရှေ့ဆုံးမှ လမ်းရှင်းသော အသံချဲ့စက်တင်ကား ဖြစ်၏၊

၂။ ဆရာတော်ဘုရားကြီး၏ ဓာတ်ပုံကြီးကို ချီမပင့်ဆောင်လာသူ ၂ ဦးနှင့် အရန် ၂ ဦး၊

၃။ ကြေးစည်ကြီးကို ဦးပုဲထမ်းကာ တီးခတ်လာသူ ၂ ဦး၊

၄။ ကြေးဝိုင်းကြီးကို ဦးပုဲထမ်းကာ တီးခတ်လာသူ ၂ ဦး၊

၅။ အဝေးမှကြွလာသော ကျောင်းထိုင်မထေရ်ကြီးများ ၂ ပါးစီ ရင်ပေါင်တန်း၍ စီတန်းလိုက်ပါလာကြ၏၊

၆။ ရွှေထီးကြီး ၄ လက်ကို ဖွင့်၍ မိုးကာ လိုက်ပါလာသူ ၄ ဦး၊

၇။ ထီးဖြူကြီး ၄ လက်ကို ဖွင့်၍ မိုးကာ လိုက်ပါလာသူ ၄ ဦး၊

၈။ ပခုံးများဖြင့် သယ်ဆောင်လာသော ဆရာတော် ဘုရားကြီး၏ ရုပ်ကလာပ်တော်၊

၉။ ရုပ်ကလာပ်တော်အနီး နောက်နားမှ ဖွင့်၍ လိုက်ပါလာသော ဆရာတော်ကြီး၏ တရားကက်ဆက် တိပ်ခွေအသံ၊

၁၀။ ရှေ့နောက် စီတန်းလိုက်ပါလာသော ကျောင်းတိုက်တွင်းမှ သံဃာတော်များ၊

၁၁။ သီလရှင် ဆရာကြီး ဆရာလေး ပရိသတ်များ၊

၁၂။ ဈာပနဗဟိုကော်မတီအဖွဲ့ဝင်များ၊

၁၃။ လူပုဂ္ဂိုလ် ဒါယကာ ဒါယိကာမများ ဖြစ်ကြသည်။

ရှည်လျား များပြားသော ပရိသတ်ကြီးမှာ ဆရာတော်၏ ရုပ်ကလာပ်ကို ရှေ့ နောက် ဝန်းရံ၍ ပို့ဆောင်ကြသည်၊ မဆုံးနိုင် မဆနိုင် များပြားလှ၏၊ သို့သော်လည်း ငြိမ်သက် တိတ်ဆိတ်လှသည်။

ငြိမ်သက်တိတ်ဆိတ်မှုနှင့် စည်းစနစ်ရှိမှုကို လိုလားတော်မူသော ဆရာတော်ဘုရားကြီးအား လေးစားပူဇော်သောအားဖြင့် ပရိသတ်အားလုံး တိတ်ဆိတ် ငြိမ်သက်စွာ စည်းစနစ်ရှိစွာ လိုက်ပါကြရန် နှိုးဆော်ထားသောကြောင့် ဖြစ်၏။

တရွေ့ရွေ့ တငြိမ့်ငြိမ့် ကြွလာသော ရုပ်ကလာပ်တော်ကို ကြည့်၍ လမ်းတစ်လျှောက်တွင် ပရိသတ်အပေါင်းက ဝမ်းနည်းကြေကွဲ ရင်ထဲလှိုက်ဖို ငိုပွဲဆင်လိုကြ၏၊ လှိုက်၍ လှိုက်၍ ရှိုက်ကြီးတငင် ပူပွဲဆင်လိုကြ၏၊ သို့သော်လည်း ဆရာတော်ဘုရားကြီး၏ တရားသံက အမြဲတမ်း သတိပေး၍ သောက ပရိဒေဝ အေးအောင် စွမ်းဆောင်နေသဖြင့် ငိုခွင့် မရကြပါ။

မျက်လုံးအိမ်များတွင် မျက်ရည်စများ ဝိုင်း၍ ဝိုင်း၍ လာတတ်ကြသော်လည်း ဆရာတော်ဘုရားကြီး၏ တရားတော်က တံမြက် ခတ်၍ ခတ်၍ ပေးသွားသည်၊ ဤနည်းဖြင့် ငြိမ်သက်စွာ သံဝေဂယူရင်း မျက်ရည်စများ ရှင်းလင်းနိုင်ကြပါသည်။

## ပခုံးတစ်ခုမှ ပခုံးတစ်ခုသို့ ဆက်ကာ ဆက်ကာ ပြောင်း၍

### ပခုံးချင်းဆက် လက်ချင်းယှက်၍

အစီအစဉ်အရ တရွေ့ရွေ့ တငြိမ့်ငြိမ့် ကြွလာသော ပရိသတ်အတန်းကြီး အလယ်လောက်တွင် ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ကို ဖူးတွေ့နိုင်ကြ၏၊ သံဃာတော်များ၏ ပခုံးများပေါ်တွင် ကျွန်းခေါင်းကြီးသည် တရွေ့ရွေ့ တငြိမ့်ငြိမ့်ဖြင့် တည်ငြိမ်စွာ ကြွလာတော်မူ၏။

ပေ ၁၀၀ မှတ်တိုင်ရောက်တိုင်း လမ်းဘေး၏ ဝဲဘက်မှ ၁၀ ပါး ယာဘက်မှ ၁၀ ပါးတို့က ရှေ့သို့ တိုးကာ ချဉ်းကပ်လာ၍ ဆရာတော်ဘုရား၏ ရုပ်ကလာပ်တော်ခေါင်းကို ပခုံးဖြင့် ခံယူလိုက်ကြသည်၊ မူလက သယ်လာခဲ့သော အပါး ၂၀ တို့က အတွင်းမှ ငုံ့၍ အပြင်သို့ ထွက်လာပြီးလျှင် နောက်က သံဃာတန်းသို့ ပေါင်းကာ လိုက်ပါလာခဲ့ကြရသည်။

ထိုနည်းအတိုင်းပင် နောက် တစ်ဖန် ပေ ၁၀၀

မှတ်တိုင်သို့ ရောက်ပြန်သောအခါ လမ်းဘေး၏ ဝဲယာက စောင့်နေကြသော တစ်ဖက် ၁၀ ပါးစီ, အပါး ၂၀ တို့က ရှေ့သို့ တိုးကာ ချဉ်းကပ်လာပြီးလျှင် ဆရာတော်ဘုရား၏ ရုပ်ကလာပ်ကို ပခုံးဖြင့် ပြောင်းကာ ခံယူလိုက်ကြပြန်ပါသည်၊ အဟောင်း အပါး ၂၀ က အပြင်သို့ ထွက်၍ နောက်က သံဃာတန်းသို့ ပေါင်းကာ လိုက်ပါလာကြပြန်သည်။

ဤသို့ ပခုံးများမှ ပခုံးများပေါ်သို့ ပြောင်းကာ ပြောင်းကာ ကြွလာသော မြင်ကွင်းသည် ရင့်တွင်းကို အထိခိုက်ဆုံး ဖြစ်ပါ၏၊ လှိုက်ကာ လှိုက်ကာ ခံစားကြရပါသည်၊ စိတ်ဝင်စားဖွယ် အကောင်းဆုံး, လေးနက်သော အဓိပ္ပာယ်ကို အဆောင်ဆုံးဟုလည်း ဆိုချင်ပါသည်၊ ဆိုလည်း ဆိုရပါမည်၊ အဘယ့်ကြောင့် ဆိုသော်...

"ဆရာတော်ဘုရားကြီးကို ကြည်ညိုနှစ်သက်၍ ယခုကဲ့သို့ ပခုံးအဆက်ဆက်ဖြင့် သယ်ဆောင်ကြသလို ဆရာတော်ဘုရားကြီး မြတ်နိုးတော်မူသော သာသနာတော်မြတ်ကြီးကိုလည်းကောင်း, စည်းစနစ် မှုတို့ကိုလည်းကောင်း တပည့် အဆက်ဆက်တို့က မှုမပျက်ရအောင် ပခုံးချင်းဆက် လက်ချင်းယှက်၍ ဆက်လက်ဆောင်ရွက် သယ်ပိုးကြမည့် နိမိတ် လက္ခဏာပေတကား" ...

ဟု ထူးခြားသော ခံစားမှုဖြင့် မှတ်ချက်ချမိသောကြောင့် ဖြစ်ပါသတည်း။

## နံ့သာထင်းတို့ဖြင့် သင်္ဂြိုဟ်ရန် အစီအမံ

ဖော်ပြခဲ့သည့် လမ်းမှ ဖော်ပြခဲ့သည့် အစီအစဉ်အတိုင်း တရွေ့ရွေ့ဖြင့် ကြွ၍ လာရာ နောက်ဆုံး မီးသင်္ဂြိုဟ်မည့် နေရာသို့ ရောက်၍ လာတော့သည်၊ ထိုအခါ မီးသင်္ဂြိုဟ်မည့် နေရာ ရာဇမတ်ကာမဏ္ဍပ်အဝမှ မူလပထမ ပင့်ဆောင်ခဲ့ကြသော တိုက်တွင်းနာယကဆရာတော်များနှင့် သတ်မှတ်ထားသော အပါး ၂၀ ကပင် စောင့်ကြိုပင့်ဆောင်ကြကုန်၏။

ပခုံးများဖြင့် လေးလေးမြတ်မြတ် ခံယူ၍ ရာဇမတ်ဝင်းသို့ ပင့်ဆောင်ကာ မီးသင်္ဂြိုဟ်ရာ အုတ်ပလ္လင်ပေါ်တွင် မြောက်ဘက်သို့ ဦးခေါင်းထားပြီး တင်လိုက်ကြတော့သည်။

စောစောက ကြိုတင်၍ ရင်စို့ခန့် အမြင့်တည်ဆောက်ထားသော အုတ်ပလ္လင်ပေါ်တွင် အခြေခံအဖြစ် သစ်သားအုံးတုံးကြီးများ လှည့်ပတ်ရံ၍ ခင်းထား၏၊ ပြီးမှ နံ့သာဖြူ နံ့သာနီ ကရမက် သနပ်ခါးတုံးများ ၆ လက်မခန့် အမြင့်ဖြည့်သိပ်လိုက်သည်၊ ထို့နောက် ဝါဂွမ်းများ ခပ်ထူထူ တစ်ထပ်ခင်းလိုက်၏၊ ထိုအပေါ်တွင် ထောပတ်ဆီများဖျန်းထားသည်။

ထိုနည်းအတူ ၆ လက်မခန့် နံ့သာထင်းများ တစ်ထပ် ခင်းပြန်၏၊ ပြီးမှ ဝါဂွမ်းများ တစ်ထပ် လာပြန်သည်၊ ထိုအပေါ်တွင် ထောပတ်ဆီများ လောင်းထားကြ ပြန်၏၊ ဤနည်းအတိုင်း နံ့သာထင်းတစ်ထပ်, ဝါဂွမ်းတစ်ထပ်, ထောပတ်ဆီ တစ်ထပ်, အချပ်လိုက် အထပ်လိုက် စနစ်တကျ စီမံထားကြသည်၊ ဤအစီအမံအားလုံးကို ကျောင်းဒကာကြီး ဦးစက်ဖေ မြေး, ကျောင်းဒကာ ဦးအောင်ခင်၏ သား ဒေါက်တာ ကျော်ကျော်စိန်က ကြောင့်ကြစိုက်၍ စီစဉ်ပေးသည်။

အားလုံးပြီးမှ ထို နံ့သာထင်းပုံ ပေါ်သို့ ရုပ်အလောင်းကို တင်သည်၊ ရုပ်အလောင်းပေါ်မှ တစ်ဖန် ကျန်သော နံ့သာထင်းတို့ဖြင့် ဖုံးအုပ်လိုက်ကြ၏၊ ဖုံးရင်း ဖုံးရင်း ဖြည့်သိပ်ရင်းဖြင့် တဖြည်းဖြည်း စေတီကြီးပမာ အဖျားချွန်၍ သွားတော့သည်။

ထိုအချိန်တွင် ရာဇမတ်ကာထားသော ဝင်းအတွင်း မျက်နှာ ၄ ဘက်၌ မီးဖိုကြီး ၄ ခုကို ဖိုထားရာ တဟိန်းဟိန်း ထောက်လျက် ရှိ၏၊ ရေနံမီးတုတ်ကြီး ၄ ခုကို တစ်မျက်နှာလျှင် တစ်ခုစီ အသင့်စိုက်ထူထားလျက် ရှိသည်။

## အနိစ္စာ ဝတ သင်္ခါရာ
## မီးသင်္ဂြိုဟ်ကြမည့် တပည့်ကြီး ၄ ပါး

စံကျောင်းတော်ကြီးမှ စ၍ ရုပ်ကလာပ်ကြွရာ လမ်းတစ်လျှောက်လုံး အစီအစဉ်ကို အသံချဲ့စက်ဖြင့် ညွှန်ကြားလာခဲ့ကြ၏၊ ထိုညွှန်ကြားသည့်အတိုင်းလည်း တာဝန်ရှိသူအားလုံး ပရိသတ်အားလုံးက တစ်သဝေမတိမ်း လိုက်နာလာခဲ့ကြသည်၊ ရုပ်ရှင်ဖလင်ဖြင့်လည်း အစ အဆုံး မှတ်တမ်းတင်ခဲ့ကြ၏၊ ယခုအခါ ရုပ်ကလာပ်တော်မှာ နန်းသာထင်းပုံပေါ်သို့ ရောက်နေချေပြီ။

မီးရှို့ရမည့် ကိစ္စမှာလည်း အစီအစဉ်နှင့်တကွ ရှို့ကြရမည် ဖြစ်၏၊ ဤကိစ္စအတွက် ဆောင်ရွက်ဖို့ ရွေးချယ်ထားသော တပည့်ကြီး ၄ ပါးသည် ယမန်နေ့ကပင် ကြိုတင် ကွင်းဆင်းပြီးလျှင် ရှို့နည်းရှို့ဟန်ကို လက်တွေ့ လေ့ကျင့်ခန်းဝင်ပြီး ဖြစ်ကြ၏၊ အစီအစဉ် ညွှန်ကြားမှု ပေးသည့်အတိုင်း ရှို့ကြရမည် ဖြစ်သည်။

ယခုအခါ ယင်း တပည့်ကြီး ၄ ပါးမှာ ရာဇမတ်ကာ အတွင်းသို့ ဝင်၍ နေရာယူကြပြီး (စောစောကရာဇမတ်ကာအတွင်း၌ အလုပ်လုပ်နေကြသော သံဃာတော်များအားလုံး တစ်ပါးမကျန် အကုန်ထွက်ပေးကြရ၏၊) တာဝန်ရှိ ၄ ပါးမျှသာ နေခွင့်ရတော့သည်၊ ထို ၄ ပါးကို ထေရ်စဉ်ဝါလိုက် စီစဉ်လိုက်သောအခါ...

၁။ ဦးခေါင်းထားရာ မြောက်ဘက်အရပ်တွင် အရှင်ယောသိတ (ရန်ကုန် သံဃတက္ကသိုလ်)၊
၂။ ရုပ်ကလာပ်၏ အရှေ့ဘက်အရပ်တွင် အရှင်သူရိယ (မုံရွာ ဝိဇ္ဇာသိပ္ပံ)၊
၃။ ရုပ်ကလာပ်၏ ခြေရင်း တောင်ဘက်အရပ်တွင် အရှင်ကဝိသာရ (စစ်ကိုင်း ဝေဇယန္တာ)၊
၄။ ရုပ်ကလာပ်၏ အနောက်ဘက်အရပ်တွင် အရှင်စန္ဒောဒယ (ပဲခူး ဂန္ဓာရုံ)...

ဟူ၍ တပည့်ကြီး ၄ ပါးကို လက်ယာရစ် စဉ်ထားသည်၊ ယခု ညွှန်ကြားချက်ကို စောင့်မျှော်နေကြပြီ။

## အစီအစဉ်ဖြင့် မီးသင်္ဂြိုဟ်ကြခြင်း

တစ်နေရာမှ အသံချဲ့စက်ဖြင့် လှမ်း၍ ညွှန်ကြားနေသည်၊ ... "မီးသင်္ဂြိုဟ်မည့် တပည့်ကြီး ၄ ပါး အသင့်ဖြစ်တော်မူကြပါဘုရား"ဟု သတိပေးသောအခါ ကိုယ့်နေရာတွင်ကိုယ် မတ်မတ်ရပ်လျက် ရုပ်ကလာပ်ကို လက်အုပ်ချီကာ နေကြရသည်။

"ဦးညွှတ်ကန်တော့ကြပါဘုရား"ဟု ညွှန်ကြားသောအခါ ၄ ပါးလုံး ကိုယ့်ဘက်ကိုယ် သဲဖြူးခင်းထားသော မြေပြင်တွင် ထိုင်၍ ဦးချ ကန်တော့လိုက်ကြသည်။

"မီးတုတ် ကိုင်တော်မူကြပါဘုရား"ဟု ညွှန်ကြားသောအခါ အသင့်စိုက်ထောင်ထားသော မီးတုတ်များကို ကိုယ်စီကိုယ်င ယူ၍ ကိုင်လိုက်ကြရသည်။

"မီးဖိုမှာ မီးညှိကြပါဘုရား"ဟု ညွှန်ကြားမှ ကိုယ့်မီးဖို အသီးသီး မီးညှိကြသည်။

"ရုပ်ကလာပ်ဘက်ကို လှည့်၍ မီးတုတ်မြှောက်ကာ ပူဇော်နေကြပါ"ဟု ညွှန်ကြားလျှင် ညွှန်ကြားသည့်အတိုင်း ပြုလုပ်နေကြသည်။

"မီးတုတ်ကို မြှောက်လျက် ရုပ်ကလာပ်ကို လက်ယာရစ်ပြီး တစ်ပတ်လှည့်၍ ပူဇော်ကြပါ"ဟု ညွှန်ကြားလေလျှင် မီးတုတ်ကို လက်နှစ်ဖက်ဖြင့် စုံကိုင်မြှောက်၍ ဖြည်းညှင်းစွာ တစ်ပတ်လှည့်ကြသည်၊ ကိုယ့်ဘက်သို့ကိုယ် ပြန်ရောက်သောအခါ ရပ်၍ နေကြရ၏။

"ရုပ်ကလာပ်တည်ရာ နန်းသာထင်းပုံကို မီးသင်္ဂြိုဟ်တော်မူပါဘုရား"ဟု ညွှန်ကြားသောအခါမှ ကိုယ့်ဘက်မှာ ရှိသော (ထောပတ်ဆီများ ဖျန်းထားသော) နေရာတွင် မီးတို့ကြရသည်၊ မီးမြိုက်မြိုက်စွဲသောအခါ "မီးတုတ်များကို နေသားတကျ ပြန်သိမ်းကြပါဘုရား"ဟု ညွှန်ကြားလျှင် ညွှန်ကြားသည့်အတိုင်း လိုက်နာကြရ၏။

"ရုပ်ကလာပ်ကို လက်အုပ်ချီ၍ လက်ယာရစ် တစ်ပတ်လှည့် ကန်တော့ကြပြီးလျှင် ရာဇမတ်ဝင်းအပြင်သို့ ထွက်တော်မူကြပါဘုရား"ဟု ညွှန်ကြားလျှင် ထိုအတိုင်းပင် ပြုလုပ်၍ ထွက်ကြရလေသည်။

## မီးနိုး မီးလျှံတို့က တရားဟောနေသလို

ထိုအခါ နံ့သာထင်းပုံမှ မီးတောက် မီးလျှံတို့သည် အရှိန်ကြီးမားစွာ တဖျင်းဖျင်း ဝါးမျိုလျက် ရှိကြကုန်၏၊ မီးသင်္ဂြိုဟ်ရာ တောင်သမန်အင်းစောင်း အထိ လိုက်ပါလာကြသော တစ်သိန်းကျော်မျှသော ပရိသတ်ကြီးသည် နံ့သာထင်းပုံ (မီးဝါးနေပုံ)ကို ငေးစိုက်လျက် ကြည့်နေကြကုန်၏၊ ရင်တွင်းအပြည့် မချည့်တင်ကဲ ဝမ်းနည်းတသ ကိုယ်စီနှမြောလျက် ရှိကြပေလိမ့်မည်၊ ထို့ပြင်လည်း တစ်ခုတည်းသော နံ့သာထင့်မှုံကို ဝိုင်းအုံ ငေးစိုက်ကြည့်နေကြရင်း-

**"အသက်စည်းစိမ်, ခန္ဓာအိမ်ကား, တိမ်တစ်ခဲနက်, ကြည့်ရင်းပျက်သို့, မျက်စိအောက်တွင်, ပျောက်လွင့်စင်၏၊ သင်္ခါရစက်, သူ့ပိုင်နက်၌, သွက်သွက်လည်ကာ, ပါရရှာသည်, ခန္ဓာ အနိစ္စပါတကား၊ ဖြစ်တာ ပျက်ဖို့ပါတကား"**

ဟု တိတ်ဆိတ်ငြိမ်သက်စွာ သံဝေဂယူနေကြဟန်လည်း ရှိကြပါ၏။

ထိုစဉ်တွင် သွက်လက်စွာဖြင့် နက်ပြာရောင်နှင့် ရဲရဲတောက် အနီရောင်များ ရောသော မီးခိုး မီးလျှံတို့က **"အနိစ္စာ ဝတ သင်္ခါရာ, ဥပ္ပာဒဝယဓမ္မိနော"**ဟု ပရိသတ်ကြီးအား တရားဟောသလို အမူအရာများ ပြုကာ (ဆရာတော်ဘုရားကြီး၏ မွှေးကြိုင်သော သီလ သမာဓိ ပညာစသော ရနံ့တို့ကို မွှေးကြိုင်သော နံ့သာထင်းရနံ့တို့ဖြင့် ပွေ့ပိုက်ပြီးလျှင်) အထက် ကောင်းကင်သို့ အလိပ် အလိပ် တက်၍ တက်၍ ယူသွားကြကုန်သတည်း။ ။

၁၃၄၃ ခု တန်ဆောင်မုန်းလပြည့်နေ့
(၁၀-၁၁-၈၂)



ဆရာတော်ကြီး ရုပ်ကလာပ်အား မီးသင်္ဂြိုဟ်နေပုံ

## ဤစာအုပ်၏ နိဂုံး
## ၃၆ နှစ်ကာလနှင့် ၃၆ ပေ အကွာအဝေး

ဤ"**တစ်ဘဝသာသနာ**"စာအုပ်ပြီးစီး၍ နိဂုံးအုပ်ချိန်မှာ ဆရာတော်အတွက်ရည်စူးပြီး "အထိမ်းအမှတ် ဗိမာန်ကြီး"တည်ဆောက်ပြီးစ အချိန်ကာလနှင့် ကြုံကြိုက်နေသည်၊ ဗိမာန်၏ နေရာအတွက် ဆရာတော်ကြီး ရုပ်ကလာပ်ကို မီးသဂြိုဟ်ရာဌာနဉ်ပင် သတ်မှတ်ကြ၏၊ မီးသဂြိုဟ်ရာပြာပုံအတွင်း မှ "ဆရာတော်၏ ဦးခေါင်းငယ်ထိပ်အစွန်သည် သူများတွေထက် လွန်လွန်ကဲကဲ ပို၍ထူသည်"ဟု တပည့်ကြီးတစ်ပါးဖြစ်သော မန္တလေးအရှေ့ဘက် ရန်ကင်းတောင် ဦးကေလာသ ပြောပြဖူး၏၊ မီးသဂြိုဟ်ရာ ပြာပုံတစ်ခုလုံးကို ငုံခြုံ၍ ဗိမာန်တည်ဆောက်လိုက်ကြသည်၊ ပုဂံခေတ်က လက်ရာပုံမျိုး ဖန်တီးထား၏။

အင်းရေစပ်တွင် အောက်ခံအုတ်ခုံကို အမြင့်ကြီး ပြုလုပ်ပြီးမှ ထိုအပေါ်တွင် ဗိမာန်ကို တင်၍ ဆောက်လုပ်ထားကြသည်၊ ထို့ကြောင့် ဗိမာန်သို့ သွားလိုလျှင် ကောင်းကင်တံတားဖြင့် သွားရ၏၊ ကျောင်းတိုက်အုတ်တံတိုင်းမှ နေ၍ ကောင်းကင်အုတ်တံတားဖြင့် ပေါင်းကူးထားသည်။

ထိုဗိမာန်လိုဏ်ဂူအတွင်း၌ ဆရာတော် အရှင်ဇနကာဘိဝံသ၏ ပုံတူရုပ်တုကို ထည့်သွင်း ကြည်ညို ထားပါသည်၊ အုတ်တံတိုင်းမှ ဗိမာန်အထိ ၃၆ ပေ ကွာဝေးပါသည်။

ဤနေရာ၌ ထူးခြားမှုတစ်ခုကို တင်ပြလိုပါသည်၊ "အုတ်တံတိုင်းမှ ဗိမာန်အထိ ၃၆ ပေ ကွာဝေး၏" ဆိုသောအချက်ပင် ဖြစ်ပါသည်၊ ဤအမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်သို့ ဆရာတော် အရှင်ဇနကာ ဘိဝံသ မထေရ်မြတ် ပြောင်းရွှေ့ကြွလာ သီတင်းသုံးခဲ့သည်မှာ ၁၃၀၃ ခုနှစ် ဖြစ်ပါသည်၊ သို့ဖြစ်၍ (၁၃၃၉-၁၃၀၃) ၃၆ နှစ်တာကာလ ကြာညောင်းခဲ့ပါသည်။

မီးသဂြိုဟ်စဉ်ကနှင့် ဗိမာန်တည်ဆောက်ကြစဉ်ကမူ အကွာအဝေးကို သင့်တော်ရုံမျှ ခန့်မှန်း၍ သတ်မှတ်ခဲ့ကြ၏၊ သို့သော်လည်း ယခုကဲ့သို့ ပြီးစီးသောအခါ အကွာအဝေးကို တိုင်းကြည့်ရာတွင် ၃၆ နှစ် ကာလနှင့် ၃၆ ပေ အကွာအဝေး ညီမျှနေသည်ကို ထူးဆန်းစွာ တွေ့နေရသဖြင့် အံ့သြကြရတော့သည်။

## ယပ်ဝန်းကို စေတ်တိုင်း လေအေးတွေရသလို

ဗိမာန်အတွင်း၌ ကိန်းဝပ်လျက်ရှိသော ကျေးဇူးရှင် အရှင်ဇနကာဘိဝံသ ဆရာတော်ဘုရားကြီး၏ ပုံတူရုပ်တုတော်ကလည်း တစ်ဘာသာ ဆန်းလျက် ရှိပြန်သည်၊ အခြား အခြားသော ဆရာတော်ဘုရားကြီး များ၏ ပုံတူရုပ်တုကို ထုလုပ်ကိုးကွယ်ကြရာတွင် တင်ပျဉ်ခွေထိုင်သော ပုံများကိုချည်း ထုလုပ်တတ်ကြသည်၊ ယခု ထိုသို့ မဟုတ်ပါချေ၊ ကြိမ်ကုလားထိုင် နိမ့်နိမ့်ပေါ်တွင် တင်ပါးလွှဲ ထိုင်၍ ခန္ဓာကိုယ်ကို မတ်မတ် နေသောပုံမျိုး ဖြစ်သည်၊ တက်ကြွသောအသွင်ကို ဆောင်နေ၏။

ဆရာတော်ကိုယ်တိုင်ကလည်း လုံ့လဝီရိယကြီးမား၍ တစ်ဘဝလုံးလှုပ်ရှားကာ သာသနာတော် အတွက် အလုပ်လုပ်လာခဲ့သော (သွေးမအေးသော) ဆရာတော်တစ်ပါး မဟုတ်ပါလော၊ အနီးသို့ ချဉ်းကပ် လာသော ရဟန်း ရှင် လူ ဒါယကာ ဒါယိကာမတို့အား ဘာသာရေး သာသနာရေး အကြောင်းအရာတို့ကို ညွှန်ကြားနေသည့်ဟန်မျိုး ဖြစ်ပါ၏၊ ပုံတော် အရွယ်ပမာဏမှာ ဝဲနှင့်ယာ အနံ ၂ ပေ ၂ လက်မဖြစ်၏၊ ရှေ့နှင့်နောက် အလျား ၃ ပေ ၂ လက်မ, အရပ်အမြင့် ကုလားထိုင်နှင့်တကွ ၄ ပေ ၂ လက်မ ရှိသည်၊ ပကတိအရွယ်တော်ထက် အနည်းငယ် ထွားကြိုင်းတုတ်ခိုင်ဖြိုးစေ၍ ပြုလုပ်ထား၏၊ ကွန်ကရစ်ကျောက်သား ဖြင့် စီမံထားသည်၊ အတွင်းမှ အမာခံ သံထည်သံခြင်းကြားပစ္စည်းများ ပါရှိ၏။

သီတင်းသုံးသော ကုလားထိုင်ကလည်း (ကြိမ်အသွင်ပြုလုပ်ထားသော) ကွန်ကရစ်ကုလားထိုင်ပင် ဖြစ်သည်၊ မျက်လုံးတော်က ဆေးမျက်လုံး ဖြစ်၍ အရောင်လက်ပြီး လှုပ်ရှားလျက် အသက်ဝင်နေ၏၊ လက်ထဲတွင် ထန်းရွက်ယပ်ဝန်းငယ်တစ်ခုကို ကိုင်ထားပြန်သေးသည်၊ ထန်းရွက်ယပ်ဝန်းက ကိုယ်စိတ် နှစ်ပါး အေးချမ်းသည့် အသွင်ကို ဖော်ပြနေ၏။



ဆရာတော့်အထိမ်းအမှတ်ဗိမာန်တော်နှင့်ဗိမာန်အတွင်းမှရုပ်တုတော်



ဆရာတော်ဘုရားကြီး၏ ရည်ရွယ်ချက်များကို
ဆက်လက်အကောင်အထည်ဖော်ရန် ဆရာ ဒကာ စုပေါင်းတိုင်ပင်လျက်

"သက်တော် ၅၀ ကျော်အရွယ်က ရုပ်ပုံမျိုးနှင့် တူသည်"ဟု ချီးမွမ်းကြသည်၊ လက်ချောင်းကလေး များမှာ ပြေပြစ်၍ တုတ်တုတ်တဲ့ကလေးတွေနေ၏၊ ထိုလက်ချောင်းကလေးများဖြင့် သာသနာပြုကျမ်းပေါင်း များစွာကို ရေးသားခဲ့ပြီးလျှင် တစ်ခါတစ်ရံ ထိုလက်ချောင်းကလေးများတို့ဖြင့်ပင် လက်နှစ်ဖက်ကို ပူးယှက်၍ ဘုရားကို ကန်တော့ခဲ့သည်၊ ဘုရားကို အလွန်ကြည်ညိုတော်မူ၏။

ဆရာတော်က ဘုရားကိုယ်တော်မြတ်၏ သာသနာတော်အရေးကို ပြောနေရလျှင် မောသည် မထင်ပါ၊ လက်ထဲက ထန်းရွက်ယပ်ဝန်းကို လွှဲ၍ လွှဲ၍ခတ်တိုင်း လေအေးတွေရသလို သူ့နှလုံးသားမှ အေးချမ်း တည်ငြိမ်စွာ ဖြစ်ပေါ်လာသော သာသနာရေးသွန်ကြားချက်စကားလုံးတို့ကလည်း မကုန်နိုင်အောင် နှုတ်ဖျားကို ဖွင့်ဟတိုင်း တသွင်သွင် ထွက်လာနေတတ်ပါသည်။

## သူ့ဘဝနှင့် သူ့လုပ်ရပ် ဟပ်မိပါဘိခြင်း

ဆရာတော်ကို အစဉ်သတိရနေစေဖို့အတွက် ယခုကဲ့သို့ ဗိမာန်တည်ဆောက်ပြီးလျှင် ဗိမာန်အတွင်း၌ ဆရာတော်၏ ပုံတူကို ထားရုံမက ဆရာတော်၏ ဘဝကိုပါ သရုပ်ဖော်ဖို့ရာ ထိုဗိမာန်အတွင်းနံရံတို့ကို အသုံးပြုထားသည်၊ အသုံးပြုပုံမှာ ဆရာတော့်တစ်ဘဝလုံး ဆရာတော်ရေးသားပြုစုခဲ့သော ကျမ်းစာအမျိုး ပေါင်း ၆၀ ကျော်တို့အတွက် စကျင်ကျောက်ပြားပေါင်း ၆၀ ကျော်တို့ကို စာအုပ်ပုံ ပြုလုပ်ပြီးလျှင် စာအုပ် နာမည်များ အသီးသီး ရေးထိုး၍ အစီအစဉ်တကျ အတွင်းနံရံများပေါ်၌ မြှုပ်၍ ကပ်ထားရာ "သူ့ဘဝနှင့် သူ့လုပ်ရပ် ဟပ်မိပါဘိခြင်း"ဟု ချီးကျူးကြတော့သည်။

ထို့အပြင်လည်း ဆရာတော် သက်တော်ထင်ရှားရှိစဉ်က အမြဲသီတင်းသုံးသွားခဲ့သော သစ်သား ကျောင်းကလေးကိုလည်း မည်သူ့အားမျှ အသုံးပြုခွင့်မပေးဘဲ "ပြတိုက်ကလေး"အဖြစ် ထိန်းသိမ်းစောင့် ရှောက်ထားကြပါ၏၊ ထိုအတွင်း၌ ဆရာတော်၏ သပိတ် တောင်ဝှေး ယပ် ဖိနပ်၊ ကျိန်းစက်သော ရိုးရိုး သစ်သားခုတင်လေး၊ ဆင်မြန်းသော သင်္ကန်း၂ စုံ၊ ပိဋကတ်စာအုပ်ဗီရို ၂ လုံး၊ စာရေးရာတွင် အသုံးပြု သော စားပွဲခြေတန်ရှည်နှင့် ကလောင်ကလေးများ၊ ခဲတံကလေးများ ဖြစ်ကြပါသည်။

ထိုတွင် ခုတင်ကလေးမှာ သကျသီဟစာမေးပွဲအောင်တုန်းက ရသောခုတင်လေးဟု အမိန့်ရှိဖူးပါသည်၊ နောက်ထပ် ကောင်းမွန်သော ခုတင်ကြီးများကို ရရှိသော်လည်း ဤခုတင်ကလေးမျှဖြင့်ပင် ကျန်းမာရေး လုံလောက်ပြီဟု ဆိုကာ အခြားခုတင်များကို လက်ခံတော်မမူခဲ့။

လာရောက်ကြည်ညိုသူများက "ဒါဟာဆိုရင် အင်္ဂလန်က နာမည်ကျော် စာရေးဆရာကြီး ဝီလီယန် ရှိတ်စပီးယားမွေးတဲ့ စထရက်ဖို့ဒ်အပွန်အေဗွန်မြို့ကလေးမှာ ဘူမွေးဖွားတဲ့ အိမ်ကလေးတို့၊ ငယ်ငယ်က စီးတဲ့ ပုခက်တို့၊ အိပ်ခဲ့တဲ့ ခုတင်တို့ကို ထိန်းသိမ်းစောင့်ရှောက်ထားတဲ့ ပုံမျိုးပဲ၊ ပြီးတော့ နောက်တစ်ခုက ဆိုဗီယက်ရုရှားနိုင်ငံမှ ကမ္ဘာကျော်စာရေးဆရာကြီး တော်စတွိုင်းရဲ့ "ယာစီယာနားပလာယနာ"ရွာကလေးမှ သူ့အိမ်ဝင်းခြံနဲ့ အိမ်ကလေး ၂ လုံးကို ဆိုင်ရာတို့က ပြတိုက်ကလေးအဖြစ် ထိန်းသိမ်းစောင့်ရှောက်ထား သလိုလည်း ဖြစ်တယ်၊ အင်း-သာဓု သာဓု၊ "ကောင်းပါ့ ကောင်းပါ့"ဟူ၍ ခေါင်းညိတ် မြွက်ဆိုသွားတတ် ကြသည်။

## အာသာမပြေဘဲ ကလောင်လက်စွဲလျက်

ဆရာတော်ကား သာသနာတော်အတွက် ဝန်ကို ထမ်းရန် တာဝန်တစ်ရပ်နှင့် လာခဲ့ရသူကဲ့သို့ ဖြစ်၏၊ အမြဲတမ်း သာသနာရေးအကြောင်းကို ပြောသည်၊ သာသနာအတွက် အလုပ်ကို ကိုယ်စီကိုယ်င လုပ်ကြ ရမည်ဟု ဆို၏၊ "ဘဝနှင့် အလုပ်တွင် အလုပ်က ပို၍ အရေးကြီးသည်"ဟု မိန့်၏၊ ထို့ကြောင့် သူကိုယ်တိုင် လည်း မနေမနား ကြိုးစားသည်၊ အခြား သူများကိုလည်း သူ့နည်းတူ ကြိုးစားဖို့ရန် နှိုးဆော်၏။ 528

"အသက်ရှင်လျက်နှင့် အလုပ် မလုပ်ဘဲ မနေသင့်၊ အနားယူခြင်းသည် သေမှသာ ယူဖို့ သင့်တယ်" ဟုလည်း မိန့်တတ်သည်၊ ရဟန်းဆိုတာ ခုရနှစ်ပါးတွင် တစ်ပါးပါးကို လုပ်နေရမှာပဲ၊ မလုပ်တဲ့ ဘုန်းကြီး ကတော့ "အလုပ်လက်မဲ့ဘုန်းကြီး"လို့ ဆိုရဖို့ပဲ၊ ဒါကြောင့် အလုပ်လက်မဲ့ မနေကြနဲ့"။

ဤသို့ သာသနာတစ်ရပ်လုံးကို တပ်လှန့်သံပေးပြီး မနေမနား ကြိုးစားခဲ့၏၊ အောင်မြင်မှုတွေရခဲ့ သလို မအောင်မြင်မှုတွေလည်း များစွာ ကြုံခဲ့ရသည်၊ သာသနာတော်ကြီးအတွက် လုပ်ငန်းတွေကား များပြားလှပါ၏၊ တစ်ပါးတည်းလုပ်၍ မကုန်နိုင်တော့ပါ၊ ထို့ကြောင့် "ဝိုင်းဝန်းညီညာ စုပေါင်းဆောင်ရွက် ကြစမ်းပါ၊ ဂိုဏ်းဂဏခွဲခြားပြီး စည်းရိုးတွေ တားမနေကြပါနဲ့၊ တစ်သွေး တစ်သားတည်း တစ်စိတ်တစ်ဝမ်း တည်း စုစည်း ဆောင်ရွက်ကြစမ်းပါ"ဟုလည်း မကြာခဏ ဆော်ဩတတ်သည်။

ဆရာတော်ကား သူတစ်ပါးတို့အား ပြောကြား ညွှန်ပြနေရုံသာ မကသေး၊ ကိုယ်တိုင်လည်း တကုတ်ကုတ် လက်တွေ့ အလုပ်လုပ်တော်မူပါ၏၊ သို့သော် ဆရာတော့် တစ်ဘဝဖြင့် အလုပ်တွေပြီးရန် အချိန်မလောက်တော့ပါ၊ တဖြည်းဖြည်း နေညိုလာပါပြီ၊ ထိုအခါ ဆရာတော်က အားမလို အားမရ ဖြစ်လာဟန် တူပါ၏၊ သို့နှင့် "ဒီဘဝနှင့် အလုပ်တွေ မပြီးရင် လာမယ့် ဘဝတွေမှာ မြန်မာပြည်က ဗုဒ္ဓဘာသာဝင် မိခင်တစ်ဦးဦးရဲ့ ဝမ်းမှာ ကိန်းအောင်း မွေးဖွားပြီး ရဟန်းဘဝနဲ့ ဆက်လက်ပြီး သာသနာ ပြုဦးမယ်"ဟူ၍ပင် ကြုံးဝါးတော့သည်။

ဤသို့လျှင် ဆရာတော်ကား သာသနာပြုရေးအတွက် စိတ်ဆန္ဒ အပြည့်အဝ ရရှိမသွားခဲ့ပါ၊ အာသာ မပြေခဲ့ရှာပါ၊ သို့ရာတွင် ဒီဘဝအတွက် အချိန်တွေကုန်ပြီဖြစ်၍ လက်လျှော့ဖို့ရန် သေမင်းတမန်က သတိ ပေးနေပါပြီ၊ သို့ဖြစ်လျက် ဆရာတော်ကား လက်မလျှော့ချင်သေးဘဲ (အာသာမပြေသေးဘဲ) ကလောင်ကို လက်စွဲလျက်ပင် သေပွဲဝင်တော်မူခဲ့ရရှာပါသည်။

## ယုံကြည်စိတ်ဖြင့် လွှဲအပ်ထားခဲ့

ဆရာတော်ဘုရားကြီးကား ယခုဘဝတွင် ပြုလုပ်ရန် မပြီးပြတ်သေးဘဲ ကျန်ခဲ့သော သာသနာပြု လုပ်ငန်းလက်စများနှင့် ချမှတ်ခဲ့သော မူစနစ်များကို ဆက်လက် ဆောင်ရွက်ရစ်ကြဖို့ရန် ယုံကြည်ရသော သူ၏ တပည့်ကြီးများအား လွှဲအပ်ထားခဲ့၍ မျက်ကွယ်ပြုသွားပါချေပြီ။

တပည့်ကြီးများကလည်း (ဆရာတော်ကြီး၏ ရုပ်ကလာပ်ကို ပခုံးချင်းဆက် လက်ချင်းယှက်၍ မပျက် သယ်ဆောင်ခဲ့သလို) ယခုအခါတွင် ဆရာတော်၏ သာသနာပြုလက်စလက်နများကို မပျက်စီး မယိုယွင်းရအောင် ဆက်လက် စောင့်ရှောက်တော်မူလျက် ရှိကြ၏၊ ထိန်သိမ်းကွပ်ကဲတော်မူလျက် ရှိကြ ပါသည်၊ မဟာနာယက, နာယက, အနုနာယကများနှင့် စာချဘုန်းကြီးတို့က သူ့ငန်း ကိုယ့်ငန်း မခွဲခြားဘဲ အစွမ်းရှိသမျှ ဝိုင်းဝန်းကြလျက် တက်တက်ကြွကြွ သယ်ပိုးတော်မူလျက် ရှိကြပါ၏။

ဆရာတော် ပျံလွန်တော်မူသည်မှာ ယနေ့ ဤစာအုပ် နိဂုံးအုပ်ချိန်အထိ ၅ နှစ်မြောက် ရှိခဲ့ပါပြီ၊ ဤအချိန်တိုင်အောင် မယိုင်မယိမ်း ဝိုင်းဝန်း၍ တိုက်တာကြီးကို ထိန်းနေကြခြင်း, ဆရာတော်၏ မူလ စနစ်တို့ကို မပျောက်ကွယ်ရအောင် စောင့်ရှောက်နေကြခြင်းတို့ကို မြင်ရသဖြင့် ဆိုင်ရာ ဒါယကာ ဒါယိကာမ တို့ကလည်း အားရ ကျေနပ်စွာ သာဓုခေါ်လျက် ရှိကြပါသည်၊ "ဆက်လက်၍ ထိန်းနိုင်ကြပါစေ"ဟုလည်း အာသာဆန္ဒ ပြု၍ နေကြပါ၏၊ ဤသို့ ဆောင်ရွက်ကြခြင်းသည် ဆရာတော်ဘုရားကြီး၏ ကျေနပ်မှုကို အပြည့်အဝပေးသော အလုပ်ဟုလည်း ဆိုရပါမည်။

ဆရာတော်ဘုရားကြီးက (သူ့ရည်မှန်းချက်အတိုင်း) ဤလူ့ပြည်သို့ ပြန်လာပြီး သူ့လက်စများကို သူကိုယ်တိုင် ပြန်လည် မကိုင်နိုင်သေးမီကာလအတွင်း သဒ္ဓါတရားရှိသော တပည့်ကြီးများနှင့် ကြည်ညို သော ဒါယကာ ဒါယိကာမများ၏ ထိန်းသိမ်းထားခြင်းကို အလွန်လိုလား နှစ်သက်တော်မူလိမ့်မည်သာ တည်း။ (မယဒေဝမင်းကြီးသည် သူ့အဆုံးအမ သူ့အစဉ်အလာကို နေမိမင်းကြီးအဖြစ်ဖြင့် ပြန်လည် ထိန်းသိမ်းစောင့်ရှောက်တော်မူခဲ့ဖူးပါသည်။)

## နောက်ဆုံးလက်ရာ သံဝေဂကဗျာများ

ဆရာတော်ဘုရားကြီးမှာ များပြားလှသော သာသနာပြုအလုပ်တို့ကို ပြုလုပ်နေရင်း သည်တစ်ဘဝ အတွက် ဆောင်ရွက်ဖို့ရန် အချိန်တွေ ကုန်ဆုံးသွားပြီဖြစ်ကြောင်း သိလိုက်ပါလေပြီ၊ ဆက်လက်နေချင် ၍လည်း မရနိုင်တော့ပါ၊ သေမင်းက တံခါးကို လာ၍ ခေါက်နေပါပြီ၊ သည်ဘေးရန်ကို မည်သူ ကာကွယ် နိုင်အံ့နည်း၊ မည်သူမျှ မကာကွယ်နိုင်ပါ၊ ဘုရားသော်မှ မကယ်နိုင်ပါ။

ဤသို့ လက်တွေ့ခံစားရသောအခါ "တကယ့်အရေး, တကယ့်ဘေး, ဘယ်သွေး ဘယ်သား မကယ်ပြီ" ဟု ခံစားချက်ဖြင့် သံဝေဂစာပိုဒ်များကို ကလောင်ဖျားဖြင့် မှတ်တမ်းတင်တော့သည်၊ ဤသံဝေဂစာပိုဒ် များကို ပျံလွန်တော်မူမည့် နံနက်ပိုင်း (သို့မဟုတ်) နေ့လယ်ပိုင်းလောက်တွင် ရေးလိမ့်မည်ဟု ခန့်မှန်းကြ ရ၏၊ ပျံလွန်တော်မူပြီး၍ နေရာများကို ရှင်းလင်းကြသောအခါ ဆရာတော်၏ ရေးနေကျ စားပွဲကြီး အံဆွဲထဲမှ အသင့်တွေ့ရတော့သည်၊ ခါတိုင်းဆိုလျှင် စာတစ်ပိုဒ်ရေးပြီးပါက တပည့်တို့အား သင်ကြား ပေးနေကျ ဖြစ်၏၊ ယခု ဤသံဝေဂများကို တစ်ကြိမ် တစ်ခါမျှ သင်ကြားပေးခြင်း မရှိသေးပါ၊ သို့ဖြစ်၍ပင် "နောက်ဆုံး ရေး၍ သတိပေးသွားသော သံဝေဂစာ"ဟု ယုံကြည်ကြရပါသည်၊ ယခုအခါ ပျံလွန်တော်မူ ခါနီး နာရီပိုင်းအတွင်းမှ ရေးသားသွားသော ဆရာတော်၏ အသည်းကြားမှ ပေါ်ထွက်လာသော ထို သံဝေဂစာပိုဒ်များဖြင့် ဤစာအုပ်ကို နိဂုံးအုပ်ရပါတော့မည်။

၁။ ငါတို့နေရာ, ဤကမ္ဘာ, တဏှာ အုပ်စိုးသည်၊
၂။ တဏှာစေရာ, မနေသာ, ဖွေရှာ ဆက်ရသည်၊
၃။ ရသည့်ဥစ္စာ, ချစ်သူပါ, စွန့်ခွာ သွားရမည်၊
၄။ တကယ့်အရေး, တကယ့်ဘေး, ဘယ်သွေး ဘယ်သားမကယ်ပြီ၊
၅။ ငါနှင့်ရွယ်တူ, ငါ့အောက်လူ, ကြီးသူသေကြ များလှပြီ၊
၆။ ဓမ္မမစဲ, အိုစမြဲ, ကိုယ်လဲ သေဘက်နီးခဲ့ပြီ၊
၇။ ဇရာမီးတောင်, ကိုယ်ထဲလောင်, သေအောင် မြိုက်တော့သည်၊
၈။ မသေရခင်, သွားလမ်းစဉ်, ကြိုတင် ပြင်သင့်ပြီ၊
၉။ ဒါန သီလာ, ဘာဝနာ, လမ်းသာ ထွင်လိမ့်မည်၊
၁၀။ မဂ္ဂင်ယာဉ်ကြီး, အမြန်စီး, ခရီး ထွက်တော့မည်။

# တစ်ဘဝသာသနာ ကြိုးပမ်းလွှာ

ကျမ်းပြီးအဆုံး, ကမ္ပတ်ဖုံးလျက်, နိဂုံးနှင့်ပဲ, မချင့်ရဲ၍, ဆင့်ကဲအနေ, တင်ပြပေအံ့။

တို့ပြေမြန်မာ, သာသနာ့ဝယ်, ဘာသာဝန်ထမ်း, ရှင်ရဟန်းတို့, ရှင်လန်းလို့လ, ရှိတုန်းကမူ, ဗုဒ္ဓသာသနာ, ပွင့်ထွန်းသာခဲ့။

ခုခါတွင်ကား, ရှင်လူများတို့, စိုက်အားလို့လ, နည်းကုန်ကြသဖြင့်, ဗုဒ္ဓသာသနာ, နိမ့်လျှောလာ၍, ပမာငှက်ခါး, ပျံပိုလားသို့, ထက်ဖျားတိုင်တင့်, မြင့်ခဲ့တစ်ဖုံ, နိမ့်တုံတလှဲ့, မြင့်ခဲ့တစ်ခန်း, အဖြစ်ဆန်းသား။

ညစ်နွမ်း-သစ်လန်း, အဖြစ်ဆန်းအောင်, ရဟန်းတို့ပင်, ပြုစီရင်၏၊ ဤတွင်မူလ, ဘုတကြောင်းခြင်း, အကြောင်းရင်းကို, ရောင်းရင်းငယ်သား, အရေးထားဖို့, ရေးသား တင်ပြ, ဂါရဝဖြင့်, စိတ်လှတည်ကြည်, ဘာသာဋီကာ, မြတ်ဆရာက, မိန့်မှာဟစ်အော်, သူလှုံ့ဆော်ခဲ့။

အဟော် သုဇန, ယယ်နှောင်းလျှတို့, ဗုဒ္ဓမြတ်စွာ, သာသနာကို, ကောင်းစွာကြိုတင်, မပြုပြင်သော်, အမြင်မှိန်မှေး, အထင်သေး၍, ယဉ်ကျေးဖွယ်ရာ, အပြာပြာနှင့်, ဘာသာ ဝါဒ, ဟူသမျှတို့, စစကုန်သုဉ်း, ပြုတ်ပြုတ်ပြုန်းလိမ့်။

၂ ထွတ်ဘုန်းသာသနာ, ပျောက်သောခါဝယ်, ထွေရာကောင်းနိုး, ဝါဒမျိုးဖြင့်, အကျိုး မဟုတ်, ဖြစ်ပြန်ခဲ့မူ, တကယ့်တိုင်းကြီး, ပြည်အနီး၌, တိုင်းသီးပြည်နယ်, မျက်နှာငယ်လိမ့်။

သို့နှယ်ကြောင်းရာ, စပေါင်းကာဖြင့်, ကောင်းစွာမျှော်ညှိ, ဆင်ခြင်မိ၍, တို့၏နယ်မြေ, တို့အမွေနှင့်, တို့မေဘာသာ, သာသနာကို, တို့သာကြို့ကြံ, စောင့်ရှောက်အံ့ဟု, ခံ့ခံ့လက်ရုံး, မြှောက်ချီကျုံးလျက်, မြတ်ဘုန်းထေရ်လှိုင်, သူကိုယ်တိုင်လည်း, ခိုင်ခိုင်များမြတ်, တအားဓာတ်ဖြင့်, ငါးရပ်နိကာယ်, ဖြိုးဖြိုးကြွယ်မျှ, သုံးသွယ်ပိဋကတ်, ထုတ်ချင်း ခတ်အောင်, စေ့စပ်ရေးသား, သူကြိုးစား၏။

တစ်ပါးထို့ပြင်, သူ့ခေတ်တွင်လည်း, ပြုပြင်ဆန်းသစ်, တစ်ခန်းဖြစ်အောင်, နွမ်းညစ် ပယ်ရှား, မူသစ်အားဖြင့်, ဘုရားမြတ်စွာ, စောသတ္တာ၏, သာသနာတော်, မူရင်းပေါ်ဖို့, လှုံ့ဆော်ရေ့သွား, သူကြိုးစားခဲ့။

စိတ်ထားသန့်စင်, သူ့လုပ်ခွင်နှင့်, သူ့အင်သူ့အား, အစထား၍, များပြားစွာလှ, ကြည်ညိုရအောင်,**"တစ်ဘဝသာသနာ"**, ရေးသားကာဖြင့်, သဒ္ဓါဖြိုးဖြိုး, ဥဒါန်းထိုးသည်,

ရှိုးရှိုးရှိန်းရှိန်း မြမြတည်း။

# အလွန်ကံကောင်းသော မြန်မာပြည်

## အရှင်ဇနကာဘိဝံသ၏ သာသနာဆက်လက်ကြိုးစားခြင်း

၁၃၃၉ ခု နတ်တော်လပြည့်ကျော် ၂ ရက် (၂၇-၁၂-၇၇) အင်္ဂါနေ့တွင် ဆရာတော် အရှင်ဇနကာဘိဝံသ ပျံလွန်တော်မူခဲ့ပါသည်၊ ပျံလွန်တော်မူပြီးနောက် ၁၃၄၀ ပြည့် နှောင်းတန်ခူးလပြည့်ကျော် ၁ ရက် (၁၂-၄-၇၉) ကြာသပတေးနေ့တွင် အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်တွင် နာယကချုပ်ဆရာတော် ဦးစန္ဒောဘာသသည် ရန်ကုန်သို့ ကြွလာ၍ ၁၀၇ စိန့်ဂျွမ်းလမ်းနေအိမ်တွင် ကျမ်းစာများရိုက်နှိပ်ဖြန့်ချိရန်, ရန်ကုန်မှ ငါးယောက်, မန္တလေးမှ ငါးယောက်ပါဝင်သောအဖွဲ့တစ်ခု ဖွဲ့၍ ဆောင်ရွက်ရန် ကျွန်တော့်အား အပ်နှင်းသွားခဲ့ပါသည်။

ထိုသို့ ညွှန်ကြားအပ်နှင်းသွားခဲ့သော ကိစ္စရပ်များကို ၎င်းနေ့ချင်းပင် ရန်ကုန်မြို့ ၃၁ လမ်းမှ ဦးစောလွင်နှင့်အတူ ဗိုလ်မှူးအောင်သိမ်းအိမ်သို့ သွား၍ တိုင်ပင် ဆွေးနွေးကြပါသည်။

နာယကချုပ်ဆရာတော် ညွှန်ကြားသော မန္တလေးမြို့မှ ဒကာများမှာ ၁။ ဦးသာဌေး, ၂။ ဦးအောင်ခင်, ၃။ ဦးမောင်ကို, ၄။ ဦးသောင်းညဏ်, ၅။ ဦးအောင်ခန့် တို့ ဖြစ်ကြပါသည်။

ရန်ကုန်မြို့မှ ဒကာများမှာ ၁။ ဆရာ ဦးလှမောင်, ၂။ ဗိုလ်မှူး ကြည်ညွန့်, ၃။ ဆရာ တက်တိုး, ၄။ ဗိုလ်မှူး အောင်သိမ်း, ၅။ ဦးထိန်ဝင်း တို့ ဖြစ်ပါသည်။

နာယကချုပ် ဆရာတော် ဦးစန္ဒောဘာသ (၁၄-၄-၇၉)နေ့ အမရပူရသို့ ပြန်ကြွသွားပြီးနောက် ရန်ကုန်ရှိ သက်ဆိုင်ရာပုဂ္ဂိုလ်များနှင့် သွားရောက်တိုင်ပင် ဆွေးနွေးပါသည်။

နာယကချုပ် ဆရာတော်၏ တိုက်တွန်းချက်အရ ၁၉၇၉ ခု မေလ ၅ ရက် (၁၃၄၁ ခု ဦးတန်ခူး လဆုတ် ၁၀ ရက်) စနေနေ့တွင် ဗိုလ်မှူးအောင်သိမ်းနှင့် ကျွန်တော်တို့သည် အမရပူရ မဟာဂန္ဓာရုံ ကျောင်းတိုက် မိုးကုတ်သိမ်ပေါ်တွင် ကျမ်းစာများ ရိုက်နှိပ်ရန်အတွက် အစည်းအဝေးတစ်ခု ကျင်းပကြပါသည်၊ ထိုအစည်းအဝေးတွင် နာယကချုပ်ဆရာတော်, နာယကဆရာတော် ဦးကုဏ္ဍလာဘိဝံသနှင့် မန္တလေးမှ ၁။ ဦးသာဌေး, ဦးသောင်းညဏ်, ဦးစိန်မောင်, ၄။ ဦးအောင်ခန့် တို့ တက်ရောက် ဆွေးနွေးကြပါသည်၊ ရန်ကုန်မှ ၁။ ဦးထိန်ဝင်း, ၂။ ဗိုလ်မှူးအောင်သိမ်း တို့ တက်ရောက်ကြပါသည်။

ထိုအစည်းအဝေးတွင် ကျမ်းစာများ ရိုက်နှိပ်ရန်အတွက် ဘဏ္ဍာငွေလိုကြောင်း ဆွေးနွေးကြပြီးနောက် ကျွန်တော်နှင့် ဗိုလ်မှူးအောင်သိမ်းတို့ ပြန်လာကြပါသည်၊ ကျောင်းအမ ဒေါ်သန်းသန်းက ကျမ်းစာအုပ် တစ်အုပ် ရိုက်နှိပ်လှူဒါန်းရန် ကတိပေးလိုက်ပါသည်။

ကျွန်တော်နှင့် ဗိုလ်မှူးအောင်သိမ်းတို့သည် မန္တလေးမှ ရန်ကုန်သို့ ပြန်ရောက်သောအခါ စာအုပ် ရိုက်နှိပ်ရန်အတွက် မန္တလေးမှ ငွေကြေးအကူအညီ မရခဲ့သဖြင့် မိမိတို့ အနေဖြင့် ပုဂ္ဂိုလ်အရ ခေတ္တချေးယူခြင်း, အလှူခံခြင်း မိမိတို့ ကိုယ်တိုင် စွမ်းဆောင်နိုင်သမျှ ကြိုးစားအားထုတ်ခြင်းဖြင့် ၂ ဦးတည်းပင် ပူးတွဲ တာဝန်ယူ၍ ကြိုးစားဆောင်ရွက်ခဲ့ကြပါသည်။

၁၉၇၉ ခု မေလ ၁၁ ရက်နေ့ ကျမ်းစာအုပ် မဖြစ်သေးသော "ဗုဒ္ဓဘာသာသင်ခန်းစာ"စာမူကို ပထမဦးဆုံး စတင် ရိုက်နှိပ်ရန် ကမ္ဘာအေး ဗုဒ္ဓသာသနာ့အဖွဲ့နှင့် ဆွေးနွေး၍ ကျွန်တော်တစ်ဦးတည်းပင် တာဝန်ယူ၍ စာချုပ်ပြုလုပ် ရိုက်နှိပ်ခဲ့ပါသည်။

ကျမ်းစာများ ရိုက်နှိပ်ရာတွင် အချို့မှာ ကမ္ဘာအေး ဗုဒ္ဓသာသနာ့အဖွဲ့ပုံနှိပ်တိုက်တွင် ရိုက်နှိပ်၍ အချို့ကျမ်းစာများကို အပြင် ပုံနှိပ်တိုက်တွင် ရိုက်နှိပ်ပါသည်။







ဦးစန္ဒောဘာသ(နာယကချုပ်)



ဦးမဟိန္ဒ



ဦးဣန္ဒောဘာသာဘိဝံသ



ဦးအဂ္ဂဝံသ



ဦးကုဏ္ဍလာဘိဝံသ

ဒီကျောင်းမှာ ကောင်းကောင်းနေနိုင်မှ နေကြပါ၊ ဒီမှာနေရင် ဝိနည်းလေးစားရမယ်၊
လွှားလွှား လွှားလွှားနေချင်ရင် ဘုန်းကြီးမလုပ်ပါနဲ့၊ မနေနိုင်ရင် ကျောင်းက ထွက်သွားရမယ်၊
ဘာသာ့ယဉ်ကျေးမှုကို ကိုယ်တော်တို့က ထိန်းသိမ်းပေးကြပါ။

၁၃၄၅–ခုနှစ်
မဟာဂန္ဓာရုံကျောင်းတိုက်ဝန်ဆောင်
နာယကနှင့်အနုနာယကဆရာတော်များ။











အဟောင်းပျက်လျှင် အသစ်ပြင်လော့
အမြင်ကျယ်၍ ပညာမွေ့လော့
ယနေ့လူငယ် နောင်ဝယ်လူကြီး
သင်လည်းတစ်ဦး သားထူးသားမြတ်
ဖြစ်အပ်ရာသည် ရှေ့သို့ရည်၍
ကြံစည်တွေးဆ စွမ်းလုံ့လဖြင့်
စိတ်ကရည်မော လောလောဆယ်ဆယ်
ဒုက္ခနယ်ကို ကယ်တင်နိုင်ကြပါစေသတည်း။







ပုဂ္ဂိုလ် တစ်ဦးတစ်ယောက်ရဲ့
စွမ်းရည်သတ္တိဖြင့်
အရာမရောက်နိုင်ပါ၊

ပတ်ဝန်းကျင် အသိုင်းအဝိုင်း
ကောင်းမှ
အထမြောက်နိုင်ပါတယ်။

လက်ျာရစ်ပုံညွှန်း
ဆရာတော်ဦးဃောသိတ၊ ဆရာတော်အရှင်ဇနကာဘိဝံသ
၏ရုပ်တုဖွင့်ပွဲ၊ ဒကာကြီးဦးကျော်ဝင်း၊
ဆရာတော်အထိမ်းအမှတ်ဗိမာန်တော်၊ ဒကာဦးထိန်ဝင်း။













## အလွန်ကံကောင်းသော မြန်မာပြည်

"ဗုဒ္ဓသာသနာတော်"ဆိုသည်မှာ လောကသားများ ချမ်းသာဖို့က အဓိက ဖြစ်ပါသည်၊ လောကသားများ ချမ်းသာဖို့ မဟုတ်၊ အကျိုးမရှိ၊ လောကသားများ ဆင်းရဲဖို့သာ ဖြစ်နေလျှင် ထိုအဆုံးအမသည် မည်သည့်နာမည်ဖြင့်ပင် အထင်ကြီးအောင် ခေါ်စေကာမူ သာသနာ မဖြစ်နိုင်ပါ။

ကျွန်တော်တို့ မြန်မာပြည်သည် လွန်ခဲ့သော နှစ်ပေါင်း ၂၅၀၀ ကျော်ကပင် ဗုဒ္ဓသာသနာ စတင် ရောက်ရှိလာ၍ သာသနာနှစ် ကိုးရာကျော်တွင် စာပေများ သုဝဏ္ဏဘူမိ သထုံသို့ ရောက်ရှိပြီး သာသနာ ၁၆၀၁ ခုနှစ်တွင် မြန်မာပြည် ပုဂံသို့ ပိဋကတ်စာပေနှင့် အရိယာပုဂ္ဂိုလ်များ ထင်ရှားစွာ ရောက်ရှိလာ ကြခြင်းဖြင့် အလွန်ကံကောင်းသော မြန်မာပြည်ဟု ခေါ်သင့်ပါသည်၊ အလွန် ကံကောင်းသော မြန်မာ ပြည်သူပြည်သားများနှင့် ထိုက်တန်အောင် ကျွန်တော်တို့သည် ယခုကဲ့သို့ ကြိုတောင့်ကြိုခဲ အလွန်ခက်ခဲ သော သာသနာတော်အတွက် မိမိတို့ရရှိသော အလွန်ကောင်းသော ကံကို အကျိုးအရှိဆုံး အသုံးပြုနိုင်ရန် ယခုကဲ့သို့ ကြိုးစားခဲ့ခြင်း ဖြစ်ပါသည်။

## တစ်ဘဝသာသနာ

ယခုကဲ့သို့ ကြိုးစားအားထုတ်ခဲ့ခြင်း၏ အနှစ်သာရကိုလည်း "တစ်ဘဝသာသနာ"ကို ဖတ်ရှုပြီးသော အခါ ဖတ်ရှုပြီးသူတိုင်း သိရှိနိုင်ခွင့် ရကြပါလိမ့်မည်၊ ထို့ကြောင့် ယခုအခါ ကျွန်တော်တို့၏ အကြိမ်ကြိမ် စုပေါင်းဆောင်ရွက်ခဲ့ရသော မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသ၏ အဆုံးအမသာသနာသည် မဟာဂန္ဓာရုံကျောင်းတိုက်နှင့် ကျောင်းတိုက်အတွင်းရှိ သံဃာများ၊ တပည့် ရဟန်း ရှင် လူ ပရိသတ်များ အတွက်သာ မဟုတ်၊ မြန်မာနိုင်ငံသူ နိုင်ငံသားများ၏ အကျိုးစီးပွား ချမ်းသာအလို့ငှာဖြစ်ကြောင်း ထင်ရှားနေပါသည်၊ အကြောင်းညီညွတ်လျှင် ထေရဝါဒသာသနာတော်ကြီးတစ်ခုလုံး ကမ္ဘာအနှံ့ ပြန့်၍ သာသနာတော်၏ အနှစ်သာရကို နားလည်နိုင်ခွင့် ရကြမည် ဧကန်ဖြစ်ပါသည်။

## ဝိပဿနာနှင့်သီလ

ထေရဝါဒသာသနာ၏ ဝိပဿနာသာသနာကို ထင်ရှားစေရန် ရဟန်းတော်များ၏ အခြေခံသီလ ဝိနည်းကျင့်ဝတ် မည်မျှအခြေခံလိုအပ်ကြောင်းကို သိခွင့်ရမှသာ ထေရဝါဒအရသာ ပေါ်နိုင်ပါလိမ့်မည်၊ ထို့ကြောင့် ထေရဝါဒသာသနာကို ပေါ်လွင်ရန် "တစ်ဘဝသာသနာ"ကျမ်းသည် အလွန်အရေးပါသော အခန်းကဏ္ဍတစ်ခုမှ ပါဝင်ပါလိမ့်မည်။

## မဟာဂန္ဓာရုံကျောင်းတိုက်

အမရပူရ မဟာဂန္ဓာရုံဆရာတော်ဘုရားကြီး ပျံလွန်တော်မူပြီး ၁၃၃၉ ခု နတ်တော်လဆုတ် ၂ ရက် (၂၇-၁၂-၇၇) နေ့မှ စ၍ ယနေ့ ယခု စာရေးသည့် အချိန်အထိ သာသနာတော်တွင် ဆရာတော်၏ ရည်ရွယ်တော်မူရင်း အခြေအနေများကို နာယကငါးပါးနှင့် အနုနာယကများက မိမိတို့ စွမ်းအားရှိသမျှ ထိန်းသိမ်းစောင့်ရှောက်လာခဲ့ရာ ယခု ၆ နှစ်ကျော်လာသောအချိန်တွင် ဆရာတော်၏ မဟာဂန္ဓာရုံတိုက် စတင် တည်ထောင်ခဲ့သည်မှ စ၍ ပျံလွန်တော်မူသည့်အချိန်ထိ ဆောင်ရွက် ထိန်းသိမ်းသွားတော်မူသော ရည်ရွယ်ချက် စည်းကမ်းများကို အတိအကျ ပြန်လည် ထိန်းသိမ်းနိုင်ရန် နာယက အနုနာယကများနှင့် မဟာဂန္ဓာရုံ၏ သာသနာကို ကြည်ညိုကြသော ဆရာ ဒကာများ စုပေါင်း တိုင်ပင်ဆွေးနွေးလျက် ဆက်လက် ဆောင်ရွက်နေကြပါသည်။

အထူးသဖြင့် ဆရာတော် ပျံလွန်တော်မူသော နတ်တော်လဆုတ် ၂ ရက်နေ့တွင် နှစ်ပတ်လည်ပွဲ အမြဲကျင်းပ၍ ဆရာတော့်အလိုကျ တိတ်ဆိတ်ငြိမ်သက်စွာ ကုသိုလ်ကောင်းမှုများပြု၍ ကျောင်းတိုက် သာသနာအတွက် ကျောင်းတိုက်သံဃာများနှင့် ဒကာ ဒကာမများ ကျောင်းတိုက်ကို ဆရာတော်အလိုကျ ထိမ်းသိမ်းစောင့်ရှောက်နိုင်ရန် ဆွေးနွေးတိုင်ပင်လျက် ရှိကြပါသည်။

## မဟာဂန္ဓာရုံတိုက်ခွဲများ

ဆရာတော်သက်တော်ထင်ရှားရှိစဉ်က မန္တလေးမြို့ မဟာမြိုင်ကျောင်းတိုက်၊ ပြင်ဦးလွင်မြို့ မဟာဂန္ဓာရုံတိုက်ခွဲ၊ ဆရာတော်ပျံလွန်တော်မူပြီးနောက် ကျောက်ဆည် မဟာဂန္ဓာရုံတိုက်ခွဲ၊ တနင်္သာရီ မြိတ်မြို့ မဟာဂန္ဓာရုံတိုက်ခွဲများ ပေါ်ပေါက်လာကြပါသည်။

ထိုတိုက်ခွဲများသည် ဆရာတော်ဘုရား၏ စည်းမျဉ်းဩဝါဒကို လိုက်နာကျင့်သုံးလျက် ကြိုးစားအားထုတ်နေကြပါသည်။

> သို့သော် အထူးသဖြင့် နာယကများနှင့်တကွ အနုနာယကများ ကျောင်းဘုန်းကြီးများသည် အာမိသ ပစ္စည်းလာဘ်လာဘ, ကျောင်းတိုက် အရှိန်အဝါအမွေကို ခံယူသည်ထက် ဆရာတော် အလိုရှိသော ကိုယ်ကျင့်ဝိနည်းနှင့် သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားဖို့ရာကို ဦးတည်ကျင့်ကြံဖို့၊ လာဘသက္ကာရ လာဘ်အကျော်အစောကို ဦးစား မပေးဖို့ အထူးပင် သတိထား ဆွေးနွေးကျင့်သုံး နေကြရပါသည်။
>
> သာသနာတော်နှင့် ပတ်သက်၍ နိုင်ငံနှင့်အဝန်း ပတ်ဝန်းကျင် အခြေအနေကို ဆရာတော်က လုံးဝ မလိုက်စေလို၊ မိမိကျောင်းတိုက်အတွင်းရှိ မိမိကို ရိုသေသူ သံဃာတော်များ, လူအများအား ဘုရားရှင်၏အဆုံးအမဥ္စသာ မိမိစွမ်းနိုင်သမျှ ဗုဒ္ဓသာသနာဝင် ပီပီသသ ကျင့်သုံးစေလိုပါသည်။

ဤကဲ့သို့ မလိုက်နာနိုင်သူများကိုလည်း ကျောင်းတိုက်တွင် မနေစေလိုပါ၊ မနေဖို့ရာလည်း တိုက်တွန်းနှိုးဆော်ပါသည်၊ ကြပ်ကြပ်မတ်မတ် ပြုရမည့်သူများကိုလည်း ကြပ်မတ်၍ တိုက်မှ ထွက်သွားစေခဲ့ရပါသည်၊ ဆရာတော်သည် မိမိ ကိုယ်တိုင်ကလည်း အကျင့်ကို ဦးစားပေး၍ တပည့်သံဃာများ, လူများကိုလည်း အကျင့်ကို ဦးစားပေးရန် အစဉ် နည်းပေးညွှန်ပြ ဆုံးမတော်မူပါသည်။

## သီလနှင့် ကျောင်းတွင်းစည်းကမ်း

ဆရာတော်သည် ကျောင်းတွင်း၌ သံဃာများကိုသာ စည်းကမ်းဖြင့် ထိန်းတော်မူသည် မဟုတ်, ကျောင်းတိုက်ကို လာရောက် ကြည်ညိုကြသော ဒါယကာ ဒါယိကာမများကိုလည်း ကျောင်းတိုက်အတွင်းတွင် စည်းကမ်းတကျ ကြပ်မတ်တော်မူပါသည်။

ဥပမာ-ဆွမ်းကျွေးလာကြသော ပရိသတ်များတွင် အချို့ စကားကျယ်စွာ ပြောကြခြင်း၊ ညဥ့်အချိန်မတော် ကျောင်းတိုက်သန့်ရှင်းရန်ဆိုပြီး တံမြက်လှည်းကြခြင်းကို ခေါ်၍ တားမြစ်သည်ကို ကိုယ်တိုင်ကြုံတွေ့ရပါသည်၊ အမျိုးသမီးငယ်များသည် အုပ်ထိန်းသူ အမျိုးသမီးဒါယကာမကြီးများ, ဒါယကာကြီးများ မပါဘဲ ဇရပ်ဝင်းမှအပ သံဃာတော်များ သီတင်းသုံးရာ ကျောင်းများဘက်သို့ မသွားလာရပါ၊ အချို့ ကျောင်းဒါယိကာမ အသက်ငယ်ရွယ်သူများကို လက်တိုအကျႌဝတ်ပြီး ကျောင်းသို့ မလာရန် တားမြစ်သည်ကိုပင် ကိုယ်တိုင်သိခဲ့ရပါသည်။

ယခု ဆရာတော်ဘုရား မရှိသောအခါ ကျောင်းတိုက်သို့ ကြည်ညိုရန် လာကြသော ဒါယကာ ဒါယိကာမများသည် ဆရာတော်အား ကြည်ညို၍ ကျောင်းတိုက်သို့ လာကြပါသည်ဆိုလျှင် ဤစည်းကမ်းများကို လိုက်နာသင့်ကြပါသည်။

သံဃာတော်အရှင်မြတ်များကလည်း ဆရာတော်၏ ကျေးဇူးဂုဏ်ကို ရိုသေလေးစားသောအားဖြင့် ဆရာတော် မနှစ်သက်သော အနေအထိုင် အပြောအဆို အပြုအမူများကို မိမိကိုယ်တိုင် စောင့်စည်း ထိန်းသိမ်းရုံမျှနှင့် မရပ်နားဘဲ မိမိနှင့် ဆိုင်ရာ ဒါယကာ ဒါယိကာမများကို ဆိုဆုံးမသင့်ကြပါသည်၊ ဤသို့ စောင့်ရှောက်ခြင်းကား သံဃာတော်များ၏ သီလကို မညစ်နွမ်းရအောင် စောင့်ရှောက်ရုံသာမက မိမိတို့၏ သီလကိုလည်း စောင့်စည်းရာ ရောက်ပါသည်၊ ဤ စောင့်ရှောက်မှုသည် ဆရာတော် အလိုလားဆုံး ဝမ်းအမြောက်ဆုံးသော ကိုယ်ကျင့်သီလ ဖြစ်ပါသည်။

ကျောင်းတိုက်အတွင်း မသင့်တော်အောင် ကျင့်သုံးနေထိုင်ကြသူများကိုလည်း သာသနာနှင့် ကျောင်းတိုက်ကို စောင့်ရှောက်သော နတ်များက မထားဖို့ မနေနိုင်အောင် စောင့်ရှောက်ကြပါဟု တိုင်တည်ပြီး မှာထားသည်များကိုပင် ကြားလည်း ကြားရ သိလည်း သိရပါသည်။

ယခုလက်ရှိ အခြေအနေအရလည်း ကျောင်းတိုက်အတွင်း၌ နာယကဆရာတော်များကိုယ်တိုင် ကြပ်မတ်၍ ပွဲကြည့်ခြင်း၊ အချိန်မဟုတ် အပြင်ထွက်ခြင်း၊ ကျောင်းတိုက်အတွင်း၌ မသင့်တော်သော အပြုအမူများကို ကျူးလွန်ကြခြင်းကြောင့် ကျောင်းတိုက်မှ ထုတ်ပစ်ရသည်များလည်း ရှိခဲ့ပါသည်၊ အချို့ ဒါယကာ ဒါယိကာမတို့နှင့် ရောလွန်းခြင်း၊ ကွမ်းစားခြင်း၊ မသင့်မတော် သွားလာခြင်းတို့ကြောင့် သတိပေးသင့်သူများကိုလည်း သတိပေးရသည်ဟု သိရပါသည်။

သို့သော် နာယကဆရာတော်များနှင့် အနုနာယကဆရာတော်များ၏ စောင့်ရှောက်မှုကြောင့် ပျံလွန်တော်မူသော ဆရာတော်ဘုရားကြီး၏ အလိုဆန္ဒတော်နှင့်အညီ ထိုက်တန်အောင် ဆက်လက်ထိန်းသိမ်း နေနိုင်လျက် ရှိပါသည်။

## တစ်ဘဝသာသနာ ဤကျမ်းစာ

ယခု ဤ "တစ်ဘဝသာသနာ"ကျမ်းစာသည် နာယကဆရာတော်များ အနုနာယကဆရာတော်များနှင့် ကျောင်းတိုက်သာသနာကို အရှည်သန့်ရှင်းတည်တံ့ခိုင်ခဲ့၍ ပြန့်ပွားလိုသူ ဒါယကာ ဒါယိကာမများ၏ ဆန္ဒအရ ပျံလွန်တော်မူသော ဆရာတော်ကြီးအား ပူဇော်သည့်အနေဖြင့် သာသနာတော် အရှည်သန့်ရှင်း တည်တံ့ပြန့်ပွားရန်ကို ကြိုးစား၍ စိတ်ဆင်းရဲ ကိုယ်ဆင်းရဲခံပြီး ကြိုးစားရခြင်း ဖြစ်ပါသည်။

## ကျမ်းစာဖြစ်မြောက်အောင် ကြိုးစားကြသူများ

ကျေးဇူးရှင် ဆရာတော်ဘုရားကြီး သက်တော်ထင်ရှား ရှိစဉ်ကပင် ဆရာတော်၏ သာသနာပြု လုပ်ငန်းကို အားပေးကူညီလျက်ရှိကြသော ရန်ကုန်မြို့မှ ဒုဗိုလ်မှူးကြီး အောင်သိမ်း (ရေ-အငြိမ်းစား၊ ရွှေတိဂုံဘဏ္ဍာတော်ထိန်းလူကြီး)၊ ဦးပေါ်ဇံ (ကျန်းမာရေးအရာရှိ-အငြိမ်းစား)၊ ဦးစောလွင်+ဒေါ်သန်းမြင့် ၃၁ လမ်း၊ ဦးအုန်းခင်+ဒေါ်စိန်စိန် (လဝက ငွေစာရင်းအရာရှိ)၊ မန္တလေးမြို့ ၂၉ လမ်း ဝါးတန်းမှ ဒေါ်ကျင်သန်း၊ မြင်းခြံမြို့မှ ဦးအောင်၊ ဦးရီ အစရှိသော ဒါယကာ ဒါယိကာမများနှင့် သာသနာတော်ကို ကြည်ညိုကြသော မိတ်ဆွေအပေါင်းက စွမ်းအားရှိသမျှ အားပေး ကူညီကြပါသည်၊ ကျမ်းစာအတွက် အစ အဆုံး ဆရာတော်၏ သာသနာတော် အရှည်သန့်ရှင်းတည်တံ့ရန် အလိုရှိသော သူတော်ကောင်းများ နည်းယူနိုင်ရန် ဆရာတော်၏ ရွက်ဆောင်ချက်များကို မကျန်ရအောင် စာရေးသူ ဆရာတော် ဦးယောသိတနှင့် ကျွန်တော်တို့သည် နာယကနှင့် အနုနာယကဆရာတော်များ၊ ဒါယကာ ဒါယိကာမများပါမကျန် ရသမျှ စုဆောင်း၍ အပြီးသတ် စာဖောင်ပိတ်သည့်တိုင်အောင် ကြိုးစားခဲ့ပါသည်၊ သို့သော် ပြည့်စုံပြီဟု မဆိုသာပါ၊ အစွမ်းရှိသမျှ ကြိုးစားထားခြင်းသာ ဖြစ်ပါသည်၊ ဆရာတော် ဦးယောသိတနှင့် ဦးကြည်တွဲ

ဒေါ်အေးအေးတို့၏ ကြိုးစားမှုကြောင့်သာ "တစ်ဘဝသာသနာ"ကျမ်းစာ ဤမျှ ချောမော ပြေပြစ်ခြင်း ဖြစ်ပါသည်၊ ကျမ်းစာတွင် ကြည်ညိုနိုင်ရန် ဓာတ်ပုံများကိုလည်း ရနိုင်သမျှ စုဆောင်း၍ အထားအသို အဆင်ပြေအောင် ဦးကြည်တွဲနှင့် ဒေါ်အေးအေးတို့က အစ အဆုံး ကြိုးစားထားကြပါသည်။

ကျမ်းစာဖြစ်မြောက်အောင် စီစဉ်ရိုက်နှိပ်၍ အလိုရှိသည့်အတိုင်း စာအုပ်ဖြစ်မြောက်အောင် ကြိုးစားရာတွင် ကျွန်တော်တစ်ဦးတည်းနှင့် ကုန်ကျစရိတ်ကို ပြည့်စုံအောင် ဆောင်ရွက်နိုင်စွမ်း မရှိသဖြင့် မဟာဂန္ဓာရုံကျောင်းတိုက်သာသနာကို ကြည်ညိုလေးစားစွာဖြင့် ကျောင်းတိုက်ကိစ္စများ၌ အစဉ်ကူညီ၍ ဆရာတော်၏ ကျမ်းစာများ ရိုက်နှိပ်ရာတွင်လည်း ပစ္စည်းအားဖြင့် အကူအညီပေးလျက်ရှိသော မြင်းခြံမြို့ အောင်သုခ ဆပ်ပြာစက် ဦးအောင်ထံမှ အကူအညီများကို ရယူခဲ့ရပါသည်။

"တစ်ဘဝသာသနာ"ကျမ်းစာသည် သာသနာတော်အတွက် အရှည်အသုံးပြုရမည့်ကျမ်းစာဖြစ်သဖြင့် ယခုအချိန်တွင် ရနိုင်သမျှ ပစ္စည်းကောင်းများဖြင့် ရိုက်နှိပ်၍ ချုပ်ရာ၌လည်း လက်လှမ်းမီသဖြင့် အကောင်းဆုံးဖြစ်အောင် ကြိုးစားခဲ့ရသဖြင့် ကုန်ကျစရိတ်မှာ မသက်သာလှပါ၊ ထို့ကြောင့် ကျမ်းစာကို ဈေးအလွန်ပေါပေါဖြင့် မရောင်းနိုင်ပါ၊ သို့သော် အပြင်ဈေးနှုန်းများထက် များစွာချိုသာအောင် ကြိုးစားထားပါသည်၊ ကျမ်းစာများ မပြီးမီ စာမူများ ရိုက်ပြီးစာဖောင်များကိုလည်း အကဲဖြတ်နိုင်အောင် သပြေကန် ဆရာတော် အရှင်ဝါသေဋ္ဌာဘိဝံသနှင့် စာရေးဆရာကြီး ဆရာဦးတက်တိုးတို့က ဖတ်ရှုဝေဖန်ပေးကြသည့် အတွက် လည်း အထူး ကျေးဇူးတင်ရပါသည်။

## ခွင့်လွှတ်တော်မူကြစေလိုပါသည်

ဤ"တစ်ဘဝသာသနာ"ကျမ်းစာကို အစ အဆုံး ဖြစ်မြောက်အောင် ကြိုးစားရခြင်းမှာ နှစ်ပေါင်း အချိန်များစွာ ယူ၍ ကြိုးစားလာခဲ့ရခြင်း ဖြစ်သဖြင့် ကျွန်တော်၏ အတိုင်းအတာနှင့်ဆိုလျှင် အလွန် ဝန်လေးသော တာဝန်တစ်ရပ်ကို ထမ်းဆောင်ရခြင်း ဖြစ်ပါသည်၊ "လုပ်နိုင်၍ လုပ်ခြင်းမဟုတ်၊ လုပ်ရန် လိုအပ်သည်ဟု ယုံကြည်သဖြင့်သာ လုပ်ခြင်း" ဖြစ်ပါသည်။

အခက်အခဲများကို ကျော်လွှန်အောင် အဘက်ဘက်မှ ကူညီကြသော "သာသနာတော်၏ မိတ်ဆွေ ကောင်း သူတော်ကောင်းများကြောင့်သာ ပြီးမြောက်အောင်မြင်လာရခြင်း ဖြစ်ပါသည်၊ သာသနာတော်နှင့် သာသနာတော်ဝန်ထမ်း သူတော်ကောင်း အရှင်မြတ်တို့၏ ဘုန်းကံကြောင့်သာ အမှန် ဖြစ်ပါသည်။

ဤ"တစ်ဘဝသာသနာ"ကျမ်းစာ၌လည်းကောင်း, မဟာဂန္ဓာရုံဆရာတော်၏ ကျမ်းစာများကို သာသနာတော်၌ အလွယ်တကူ ရရှိရန် ကြိုးစားထုတ်ဝေခြင်း၌လည်းကောင်း တစ်စုံတစ်ရာ မပြည့်မစုံ တိမ်းပါးချွတ်ယွင်းခဲ့သော် ကျွန်တော်၏ တာဝန်ထမ်းဆောင်မှု မပြည့်စုံခြင်းသာ ဖြစ်၍ ခွင့်လွှတ်ကြပါရန် တောင်းပန်ပါသည်။

အထက်ပါ သာသနာတော်အတွက် ကြိုးစားအားထုတ်ရသော ကာယကံမှု ဝစီကံမှု မနောကံမှု တို့သည် ကမ္ဘာသူ ကမ္ဘာသား သတ္တဝါများနှင့်တကွ ဘုရားရှင်၏ အာဏာစက် ပျံ့နှံ့ရာ စကြဝဠာအပေါင်း၌ ထင်ရှားရှိကြ သိနိုင်ကြသော အရိယာ ပုထုဇဉ်သူတော်ကောင်းပုဂ္ဂိုလ်အပေါင်းတို့အား အစထား၍ သိသင့် သိထိုက် အများအကျိုး မိမိအကျိုး၌ တရားနှင့်အညီ လိုလားနှစ်သက် အားထုတ်လျက် ရှိကြသော ပုဂ္ဂိုလ် အပေါင်း ကြားသိ၍ ကုသိုလ်အဖို့ကို ထပ်တူ အမျှ ရကြ၍ ချမ်းသာကြပါစေသတည်း။

ဣဒ္ဓိမန္တော စ ယေ ဒေဝါ,
ဝသန္တာ ဣဓ သာသနေ၊
တေပိ အဇ္ဈုပေက္ခန္တု,
အနေကေနေဝ သုခေန စ။

ဤမှ သာသနေ-ခြောက်သွယ်ဘုန်းရောင်၊ ထိန်ထိန်ပြောင်သည့်၊ အခေါင်ထွတ်ထား၊ ရှင်တော်မြတ်ဘုရား၏၊ သုံးပါးသိက္ခာ၊ ဤသာသနာတော်မြတ်ကြီး၌၊ ဝသန္တာ-မိုးတွင်းညွှတ်ခ၊ ကျင့်ကြံနေထိုင်ကြကုန်သော၊ ဣန္ဒြိမန္တော-လွန်ကဲထူးခြား၊ ကြီးကျယ်ခမ်းနားသော တန်ခိုးရှိကြကုန်သော၊ ယေ ဒေဝါ စ-အကြင်နတ် ဗြဟ္မာ အပေါင်းတို့သည်လည်း၊ သန္တိ-ထင်ရှားမသွေ ရှိကြပေကုန်၏၊ တေပိ-ထိုတန်ခိုးကြီးမြတ်၊ သာသနာတော်၌ မိုးတွင်းနေထိုင်ကြကုန်သော နတ် ဗြဟ္မာအပေါင်း သူတော်ကောင်းတို့သည်လည်း၊ အမွေ-သာသနာနှင့် သတ္တဝါအကျိုး လိုလားနှစ်သက် ကြိုးစားအားထုတ်လျက် ရှိကြသော ကျွန်ုပ်တို့ကို၊ အရောဂေန စ-အနာရောဂါကင်းရှင်း၊ ကျန်းမာစေခြင်းဖြင့်လည်းကောင်း၊ သုခေန စ-ကိုယ်စိတ်နှစ်ဖြာ၊ ပူဆာလွတ်ကင်း၊ ချမ်းသာစေခြင်းဖြင့်လည်းကောင်း၊ အနုရက္ခန္တု-အစဉ်ထာဝရ၊ ကူညီစောင့်ရှောက်ကြစေကုန်သတည်း။

**သာသနာတော်မြတ်၊ တရားစာတင်၊ လှမ်းပတ်ကမ္ဘာ တည်စေသော်။**



ဦးအောင်သိန်း



ဦးအောင်



ဦးရီ



ဦးပေါ်ဇံ



ဦးအုန်းခင်+ဒေါ်ခင်စိန်



ဦးစောလွင်+ဒေါ်သန်းမြင့်



ဦးထိန်ဝင်း၊ ဒေါ်အေးအေး၊ ဦးကြည်တွဲ



ဒေါ်ကျင်သန်း

**တစ်ဘဝသာသနာပြစ်မြောက်အောင် ဝိုင်းဝန်းကူညီကြသူများ**

# တစ်ဘဝသာသနာကျမ်းစာများ

## မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသ၏ ကျမ်းစာများ

အမရပူရ မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသ၏ တစ်ဘဝအတွင်း ရေးသားခဲ့သော လောကုတ္တရာပိုင်းဆိုင်ရာ ကျမ်းစာများ၏အကြောင်းကို သာသနာ့ဝန်ထမ်း ရှင် ရဟန်းပုဂ္ဂိုလ်တို့က အသိများကြသလောက် လူဝတ်ကြောင်ပုဂ္ဂိုလ်တို့က သိသူ နည်းပါးကြပါသည်၊ သို့ဖြစ်၍ "လူဝတ်ကြောင်ပုဂ္ဂိုလ် စာဖတ်ပရိသတ်များပါ လေ့လာသိရှိခွင့်ရရန် ဖော်ပြသင့်ပါသည်"ဟု အကြံပေးကြသည့်အတွက် ကျမ်းစာများ အကြောင်းကို ဖော်ပြလိုက်ပါသည်။

## ကျမ်းစာများရေးသားခြင်း၏ ရည်ရွယ်ချက်

ဆရာတော် အရှင်ဇနကာဘိဝံသသည် ငယ်စဉ်ကပင် ပရိယတ္တိစာပေများကို သင်ကြားခဲ့၏၊ သာသနာတော်အတွက် အလုပ်လုပ်၍ ဖြစ်နိုင်ရန် ရည်သန်လျက် စာမေးပွဲတို့ကိုလည်း ဝင်ရောက် ဖြေဆိုခဲ့၏၊ ပရိယတ္တိအားလုံး ပြည့်စုံသောအခါ နောင်လာ နောက်သား စာသင်သားများ ပိဋကတ်ကို အလွယ်နှင့် တတ်မြောက်အောင် ကြံဆောင်စီမံ ရေးသားတော်မူသည်။

အလွယ်နှင့် တတ်မြောက်စေသည်မှာလည်း စာတတ် အကျော်အမော်များ ဖြစ်ဖို့ထက်, သဒ္ဓါတရား တိုးပွားပြီး ကိုယ်ကျင့်စာရိတ္တများ မြင့်မား ပြည့်ဝကြစေရန် ရည်သန်တော်မူခြင်း ဖြစ်၏၊ ဤသို့သော ဦးတည်ချက်ဖြင့် ရဟန်းသိက္ခာ ၁၀ ဝါအရ သက်တော် ၃၀ အရွယ်က စတင်၍ သက်တော် ၇၈ နှစ်အတွင်း ကျမ်းစာများ ရေးသားခဲ့ခြင်း ဖြစ်ပါသည်။

ရေးသားသော ကျမ်းစာတို့မှာ ရဟန်း ရှင် လူ ပြည်သူအများ မှတ်သားလိုက်နာဖွယ် ယဉ်ကျေးမှု စာအုပ်များနှင့် ရှင် ရဟန်းတို့အတွက် သက်သက် လေ့လာဖွယ်ကျမ်းစာများ ဖြစ်ပါသည်၊ ထိုတွင် ရှင် ရဟန်းတို့အတွက် ကျမ်းစာများမှာ နိကာယ်ငါးရပ် ဘုရားဟော ပိဋကတ်တို့မှ သင်ရိုးဖြစ်သော ပါဠိတော် အဋ္ဌကထာတို့ကို အမိဘာသာဖြင့် ပြန်ဆို၍ ဖွင့်ပြရေးသားခြင်းမျိုး ဖြစ်ပါသည်။

## နိကာယ်ငါးရပ်ဟူသည်မှာ

ထိုကျမ်းစာများ၏ အမျိုးအစားတို့မှာ ဘုရားရှင်ကိုယ်တော်မြတ် ၄၅ နှစ်ပတ်လုံး ဟောတော်မူခဲ့ခာ ဒေသနာတို့ကို အုပ်စု နိကာယ်အားဖြင့် ဖွဲ့လျှင်...

၁။ ဒီဃနိကာယ်၊
၂။ မဇ္ဈိမနိကာယ်၊
၃။ သံယုတ္တနိကာယ်၊
၄။ အင်္ဂုတ္တရနိကာယ်၊
၅။ ခုဒ္ဒကနိကာယ် ဟူ၍ ငါးမျိုး ဖြစ်ပါသည်။

"နိကာယ"ကို "နိကာယ်"ဟု မြန်မာမှု ပြုထားပါ၏၊ ဆိုလိုသည်မှာ "အပေါင်းအစု" "အုပ်စု"ဟု အဓိပ္ပာယ်ရပါသည်။

၁။ ဒီဃ-ရှည်လျား၊ ရှည်လျားသော သုတ္တန်ဒေသနာအပေါင်းအစုကို "ဒီဃနိကာယ်"ဟု ခေါ်ပါသည်။

၂။ မဇ္ဈိမ-မရှည်မတို အလယ်အလတ်၊ အလယ်အလတ် သုတ္တန်ဒေသနာအပေါင်းအစုကို "မဇ္ဈိမနိကာယ်"ဟု ခေါ်ပါသည်။

၃။ သံယုတ္တ-ဆက်စပ်ယှဉ်တွဲသင့်၊ ဆက်စပ်ယှဉ်တွဲ ဖူးပေါင်းသင့်သော သုတ္တန်ဒေသနာအပေါင်းအစုကို "သံယုတ္တနိကာယ်"ဟု ခေါ်ပါသည်။

၄။ အင်္ဂုတ္တရ-(အင်္ဂ+ဥတ္တရ)-အင်္ဂါရပ် တစ်ခု တစ်ခု၊ ဥတ္တရ-ပိုလွန်, ကျော်လွန်၊ အကြောင်းအရ တစ်မျိုးတည်းသာ ဟောသော တရားအစုအပေါင်း၊ ၂ ခုတွဲတရားအစု, ၃ ခုတွဲတရားအစု, ၄ ခုတွဲတရားအစု စသည်ဖြင့် ၁၁ ခုတွဲတရားအစုအထိ အင်္ဂါရပ် တစ်ခု တစ်ခု ပိုလွန်၍ (တစ်ခု တစ်ခု တိုး၍) စီစဉ်ထားသော သုတ္တန်ဒေသနာအပေါင်းအစုကို "အင်္ဂုတ္တရ"ဟု ခေါ် မြန်မာမှုဖြင့် "အင်္ဂုတ္တိုရ်"ဟု ခေါ်ပါသည်။

၅။ ခုဒ္ဒက-အငယ်စား တိုတိုထွာထွာ၊ တိုတိုထွာထွာ အကြောင်းအရာ ဟောပြောချက်ကလေးများ အပေါင်းအစုကို "ခုဒ္ဒကနိကာယ်"ဟု ခေါ်ပါသည်။

## ပိဋကတ်သုံးဖြာသည်မှာ

တစ်ဖန် ပိဋကတ်အားဖြင့် ခွဲခြားပါမူ...

၁။ သုတ္တန်ပိဋက၊
၂။ ဝိနည်းပိဋက၊
၃။ အဘိဓမ္မာပိဋက ဟူ၍ သုံးမျိုး ဖြစ်ပါသည်။

"ပိဋက"ဟူသော ပါဠိသည် "တောင်း" "တင်းတောင်း"ဟူ၍ အဓိပ္ပာယ်ရပါ၏၊ ဤနာမည်များသည် ဘုရားရှင် ပရိနိဗ္ဗာန်ပြုပြီးမှ ပထမသင်္ဂါယနာတွင် ပေါ်လာသော အသုံးအနှုန်းများ ဖြစ်ပါသည်။

ဟိုမြို့ ဒီရွာ ဟိုနယ် ဒီနယ် နေရာများစွာတို့၌ မြတ်စွာဘုရား ဟောကြားခဲ့သော တရားဒေသနာတို့သည် သီကြိုးမရှိသော ပန်းပွင့်တို့ကဲ့သို့ အနှံ့အပြား လွင့်နေသလို ဖြစ်ပါသည်၊ ဤသည်တို့ကို ပျောက်ပျက်မကုန်အောင် သင်္ဂါယနာတင်၍ ပထမဦးဆုံး စုစည်းခဲ့ကြပါသည်။

ထိုအခါတုန်းက တင်းတောင်းကြီး ၃ လုံးကို ချထားဘိသကဲ့သို့ စိတ်ဝယ် ပိုင်းခြား, သတ်မှတ် ချထားပြီးလျှင် သုတ္တန်ပိုင်းဆိုင်ရာ တရားဒေသနာ ဟူသမျှကို ပထမတောင်းကြီးထဲ အကုန်ထည့်၊ ဝိနည်းဆိုင်ရာ ဟူသမျှကို ဒုတိယတောင်းကြီးထဲ ထည့်ပြီးလျှင် အဘိဓမ္မာ ဟူသမျှကို တတိယတောင်းကြီးထဲ ထည့်ခဲ့ကြခြင်း ဖြစ်ပေသည်။

## လက်ထက်တော်က အသုံးအနှုန်း

ဘုရားလက်ထက်တော်ကမူ "ဓမ္မ"နှင့်ဝိနယ"ဟူ၍ မျှသာ နာမည်ခွဲခြားမှု ရှိခဲ့ပါသည်၊ ရှောင်ကြဉ်လိုက်နာ ကျင့်သုံးဖွယ် စည်းကမ်းဟူသမျှကို "ဝိနယ"ဟု ခေါ်၍ ကျန်သော တရားအားလုံးကို (သုတ္တန် အဘိဓမ္မာ ဟူသမျှတို့ကို) "ဓမ္မ"ဟူ၍မျှသာ ခေါ်ခဲ့ကြပါသည်။

ထို့ကြောင့်ပင် ဘုရား ပရိနိဗ္ဗာန် ဝင်ခါနီးတုန်းက...

"အာနန္ဒာ...သင်တို့အား ဓမ္မနှင့်ဝိနယကို ငါဘုရားက အကုန် ဟောကြားထားပြီးပြီ"ဟူ၍လည်းကောင်း, ပထမသင်္ဂါယနာတင်ဖို့ ပြင်ဆင်ကြတုန်းကလည်း "ဓမ္မနှင့်ဝိနယတွင် ဝိနယက သာသနာတော်၏ အသက်ဖြစ်သောကြောင့် ပို၍ အရေးကြီးပါသည်၊ သို့ဖြစ်၍ ဝိနယကို ဦးစွာ သင်္ဂါယနာတင်ကြပါစို့"ဟူ၍လည်းကောင်း သင်္ဂါယနာတင် မထေရ်မြတ်တို့ မိန့်ဆို သုံးနှုန်းခဲ့ကြခြင်း ဖြစ်ပါသည်။

## အသုံးအနှုန်းအများဆုံးမှာ

ထိုသို့ ဝေါဟာရအဟောင်းနှင့်အသစ် ရှိကြရာတွင် ယခုအခါ အသုံးအနှုန်းအများဆုံးမှာ "နိကာယ်ငါးရပ်နှင့် ပိဋကတ်သုံးသွယ်" ဝေါဟာရများသာ ဖြစ်ကြပါ၏၊ ထိုတွင်လည်း ပိဋကတ်သုံးသွယ်ဟူ၍ သုံးနှုန်းသည်က ပို၍ များလေသည်။

၁။ သုတ္တန်ပိဋက၊

၂။ ဝိနည်းပိဋက၊

၃။ အဘိဓမ္မာပိဋက တို့ ဖြစ်ကြ၏။

ဖော်ပြခဲ့ပြီးသော နိကာယ်ငါးရပ်ရှိသည်တွင် ရှေ့ ၄ မျိုးသည် သုတ္တန်ပိဋက၌ ပါဝင်၏၊ ခုဒ္ဒကနိကာယ်မှ အချို့သည် ဝိနည်းပိဋက၌ ပါဝင်၍ အချို့သည် အဘိဓမ္မာပိဋက၌ ပါဝင်ကြပါသည်။

## သင်ရိုးအုပ်ပေါင်း ၂၀

ပိဋကတ်သုံးပုံမှ အရေးကြီးသော ပါဠိတော် အုပ် ၂၀ ကို ရွေး၍ ရှေးဆရာတော်ကြီးများက "သင်ရိုးအုပ်ပေါင်း ၂၀"ဟူ၍ သတ်မှတ်ခဲ့ကြ၏၊ ဤအုပ်ပေါင်း ၂၀ ကို သင်ယူလိုက်လျှင် ကျန်သော ပိဋကတ်တို့ကိုလည်း ကြည့်တတ် ရှုတတ်လောက်ပြီဟု ယူဆတော်မူကြသည်၊ ယင်းအုပ် ၂၀ မှာ...

သုတ္တန်ပိဋကမှ ... သုတ်သီလက္ခန်, သုတ်မဟာဝါ, သုတ်ပါထေယျ (ဒီဃနိကာယ်) ၃ ကျမ်း၊ "သုတ်သုံးကျမ်း"ဟု ခေါ်ကြ၏။

ဝိနည်းပိဋကမှ ... ပါရာဇိကဏ်, ပါစိတ်, မဟာဝါ, စူဠဝါ, ပရိဝါ ဟူသော ၅ ကျမ်း၊ "ဝိနည်းငါးကျမ်း"ဟု ခေါ်ကြ၏။

အဘိဓမ္မာပိဋကမှ ...ဓမ္မသင်္ဂဏီ, ဝိဘင်း, ဓာတုကထာ, ပုဂ္ဂလပညတ်, ကထာဝတ္ထု, ယမိုက်, ပဋ္ဌာန်းဟူ၍ အမျိုးအမည်အားဖြင့် ၇ ကျမ်း၊ "အဘိဓမ္မာခုနစ်ကျမ်း"ဟု ခေါ်ကြ၏၊ အုပ်ရေအားဖြင့် ၁၂ အုပ် ဖြစ်သည်၊ ပေါင်း အုပ်ရေ ၂၀ ကို "သင်ရိုးအုပ်ပေါင်းနှစ်ဆယ်"ဟု ခေါ်ကြ၏။

## ကျမ်းအိပ်ကြီးများနှင့် နိုးပေးသူများ

အခြားသော မဇ္ဈိမနိကာယ်, သံယုတ္တနိကာယ်, အင်္ဂုတ္တရနိကာယ်နှင့် ခုဒ္ဒကနိကာယ်မှ အချို့တို့ကို သင်ရိုးတွင် မပါဝင်၍ အသုံးပြုမခံရဘဲ ဗီရိုစာတိုက်တို့၌ အိပ်နေရသလိုဖြစ်သောကြောင့် "ကျမ်းအိပ်ကြီးများ"ဟု မှည့်ခေါ်ကြသည်၊ ရေစကြိုဆရာတော်ဘုရားကြီးနှင့် ပခုက္ကူဆရာတော်ကြီးများ အဆက်ဆက်တို့ကား "ကျမ်းအိပ်ကြီးများ"ဟု ခေါ်ကြသော ထိုနိကာယ်ကြီးများကိုပါ မခြွင်းချန်ဘဲ အခါခါ အခေါက်ခေါက် တစ်ဖက်ကမ်းသို့ ရောက်အောင် အပေါက် ပို့ချပေးတော်မူကြ၏။

ထို့ကြောင့် ထိုဆရာတော်ကြီးများ အဆက်ဆက်ကို "ကျမ်းအိပ်ကြီးများ နိုးပေးသော ဆရာတော်များ" ဟု ဂုဏ်ပြု ချီးမွမ်းတော်မူကြသည်။

## အင်္ဂါကိုးတန်နှင့်ဓမ္မက္ခန္ဓာပေါင်း

တစ်နည်းအားဖြင့် မြတ်စွာဘုရား၏ ဒေသနာတို့ကို မတူရာအကန့်ခြား၍ အမျိုးအစားခွဲခြားကြည့်ပါမူ

၁။ သုတ္တ၊
၂။ ဂေယျ၊
၃။ ဂါထာ၊
၄။ ဝေယျာကရဏ၊
၅။ ဥဒါန၊
၆။ ဣတိ ဝုတ္တက၊
၇။ ဇာတက၊
၈။ အဗ္ဘုတဓမ္မ
၉။ ဝေဒလ္လ ဟူ၍ အင်္ဂါရပ် ကိုးမျိုး ရှိပြန်လေသည်။

ထို့ထက် အကျယ်ဝန်းဆုံးကား ဘုရားရှင် ဟောသမျှ ဓမ္မက္ခန္ဓာ (တရားအစု) ကလေးများကို တစ်ခု မကျန် ရေတွက်ပါမူ ၈၄၀၀၀ ရှိ၏၊ "ဓမ္မက္ခန္ဓာပေါင်း ရှစ်သောင်းလေးထောင်"ဟု ခေါ်ကြသည်။

ဤတရားဒေသနာအားလုံး၏ အချုပ်ပဓာန အရသာကို ရှာပါမူ (ဝိမုတ္တိရသ) "အရဟတ္တဖိုလ်" ဟူသော အရသာတစ်မျိုးတည်းသာ ရှိလေ၏၊ သကြားအိပ်ကြီး တစ်အိပ်လုံးမှာ အစ အလယ် အဆုံး မည်သည့်နေရာက နှိုက်ယူ စားသုံးကြည့်သည်ဖြစ်စေ ချိုသောအရသာ တစ်မျိုးတည်းသာ ရှိသလို, ထို့အတူပင် ဘုရားဟော တရားဒေသနာအားလုံးသည်လည်း မည်သည့်ဒေသနာကိုပင် နာယူကျင့်သုံး ကြည့်သည်ဖြစ်စေ နောက်ဆုံးတွင် "အရဟတ္တဖိုလ်"ဟူသော အရသာတစ်မျိုးတည်းသာ ရှိလေသည်။

ထို့ကြောင့် မြတ်စွာဘုရား၏ တရားဒေသနာတော်များကို...

| | |
|---|---|
| ၁။ ဝိမုတ္တိရသအားဖြင့် | တစ်ပါး၊ |
| ၂။ ဓမ္မ ဝိနယအားဖြင့် | နှစ်ရပ်၊ |
| ၃။ ပိဋကတ်အားဖြင့် | သုံးသွယ်၊ |
| ၄။ နိကာယ်အားဖြင့် | ငါးဖြာ၊ |
| ၅။ အင်္ဂါအားဖြင့် | ကိုးတန်၊ |
| ၆။ ဓမ္မက္ခန္ဓာအားဖြင့် | ရှစ်သောင်းလေးထောင် |

ရှိသည်ဟု ပြောစမှတ် ပြုကြသည်။

## နောင်လာနောက်သားတို့အပေါ် စေတနာဖြင့်

ဤသို့သော အမျိုးအမည်များမှ အရေးအကြီးဆုံးမှာ ပိဋကတ်သုံးသွယ် ဖြစ်၏၊ ထိုပိဋကတ်သုံးသွယ် မှလည်း ပို၍ အရေးကြီးသည်မှာ "သင်ရိုးအုပ်ပေါင်းနှစ်ဆယ်"သာ ဖြစ်သည်။

ယခုခေတ် စာသင်သား အများစုတို့ကား ပိဋကတ်ကို ကုန်အောင် သင်ဖို့ မဆိုထားနှင့် သင်ရိုး အုပ်ပေါင်း ၂၀ ကိုပင် ကုန်အောင် သင်ယူသူ ရှားပါးကုန်ကြပြီ၊ စာမေးပွဲအောင်ရုံမျှသာ အဓိကထား၍ သင်ကြားနေကြတော့၏။

အဘိဓမ္မာ ၇ ကျမ်းမှ ဓမ္မသင်္ဂဏီပါဠိတော်၏ အဖွင့် အဋ္ဌသာလိနီ အဋ္ဌကထာမျှလောက်သာ သင်ကြ တော့၏၊ ဝိဘင်းပါဠိတော်၏အဖွင့် သမ္မောဟဝိနောဒနီအဋ္ဌကထာကိုပင် မသင်ချင်ကြတော့ပေ။

ဓာတုကထာ, ပုဂ္ဂလပညတ်, ကထာဝတ္ထု, ယမိုက်, ပဋ္ဌာန်းဟူသော ပါဠိတော်ငါးမျိုး၏အဖွင့် "ပဉ္စပကရဏအဋ္ဌကထာ"များကိုကား သင်ကြားနာယူသူ အတော် နည်းပါးကုန်ကြပြီ၊ ကြာလျှင် ပျောက်ကွယ်ဖို့သာ ရှိတော့၏၊ ထို့ကြောင့် ဆရာတော်က အဘိဓမ္မာပါဠိတော်ကြီးများ၏ အဖွင့်ကို ကုန်အောင် ဖွင့်ဆိုခဲ့ခြင်း ဖြစ်လေသည်၊ ဝိနည်းငါးကျမ်းမှာလည်း စာမေးပွဲမှ ပြဋ္ဌာန်းသော ပါရာဇိကဏ်အဋ္ဌကထာမျှလောက်သာ လေ့လာကြ၍ ကျန်အဋ္ဌကထာများကို ကြိုးစားသင်ယူသူ နည်းပါးကုန်ကြပြီ၊ စာမေးပွဲအောင်ရုံမျှသာ သင်ကြသဖြင့် ဆရာနည်းကျ ဝိနည်းကျင့်ဝတ်ကို ကျင့်လိုသော သဒ္ဓါတရားစိတ်ဓာတ်တွေ ပွားလာအောင် သင်ကြားမှုကား ခေါင်းပါးကုန်ကြပြီ။

ထို့ကြောင့်လည်း သာသနာတော်တွင် ဝိနည်းကိုယ်ကျင့်များ ကျဆင်းနေကြခြင်း ဖြစ်ပေသည်၊ အမှန်မှာ "ဝိနည်းကိုယ်ကျင့်တည်မှ သာသနာတည်နိုင်မည်"၊ ဤသို့ မြော်မြင်တော်မူ၍ ဝိနည်းဆိုင်ရာ ဘာသာဋီကာကြီးများကိုလည်း ရေးသားဖွင့်ဆိုတော်မူခဲ့ခြင်း ဖြစ်လေသည်။

သုတ္တန်ပိုင်းဆိုင်ရာ ပါဠိတော်ကြီးများကား သဒ္ဓါတရားကို တိုးပွားစေ၏၊ စိတ်ဓာတ် မြင့်မားစေ၏၊ တရားထူးရဖို့ အခြေခံအဖြစ်လည်း ခိုင်မာစေသည်၊ ထို့ကြောင့် ဆရာတော်က သုတ်သီလက္ခန်နှင့် သုတ်မဟာဝါကို ဘာသာဋီကာကြီး ၇ တွဲဖြင့် ဖွင့်ဆိုရေးသားခဲ့၏၊ သုတ်ပါထေယျကိုပင် ၂ ရက်မျှ ချပို့ ဖွင့်ဆိုခဲ့သေး၏။

ဤမျှသော စေတနာ, ဤမျှသော သဒ္ဓါတရားဖြင့် ဘာသာဋီကာကျမ်းပေါင်း များစွာတို့ကို ဆရာတော်က ရေးသား ဖွင့်ဆိုခဲ့ခြင်း ဖြစ်လေသည်။

ထိုဘာသာဋီကာကျမ်းကြီးများကို အလွယ်နှင့် တတ်မြောက်၍ ခေတ်အလျောက် စာမေးပွဲများလည်း အောင်မြင်နိုင်ရန် သဒ္ဒါကျမ်းများကို အောက်ခြေမှ စကာ အထက်တန်းဘာသာဋီကာ သဒ္ဒါကျမ်းကြီးများကိုလည်း ပြုစု ရေးသားတော်မူခဲ့ပါသည်။

ဆရာတော်၏ ရည်ရွယ်ရင်းစေတနာနှင့် သဘောထားကို လေ့လာနိုင်ကြရန် ဘာသာဋီကာကျမ်းကြီးများနှင့် ရဟန်းရှင်လူများအတွက် အကျိုးပြု ပကိဏ္ဏကကျမ်းစာများ, ဟောတရားများကိုပါ စွမ်းနိုင်သမျှ ထည့်သွင်း ဖော်ပြပေးလိုက်ပါသည်။

## သဒ္ဒါဆိုင်ရာ ကျမ်းစာများ

### ပါဠိသိက္ခာနှင့်သဒ္ဒါကျဉ်း

**စာမျက်နှာ – ၂၁၂။**

**စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၁၈။**

"ပါဠိသိက္ခာ"ဟူသည် "ပါဠိသင်ကျမ်း"ဟု အဓိပ္ပာယ်ရ၏၊ "သဒ္ဒါကျဉ်း"ဟူသည်ကား ကစ္စည်းသဒ္ဒါကဲ့သို့ သုတ်တွေ ဝုတ္တိတွေ ကာရိပ်တွေ မပါစေဘဲ လိုရင်း ပုဒ်ပါဌ်တို့ကို ရွေးထုတ်၍ စာသင်သားတို့၏ နှလုံးသားသို့ ဒက်ထိ ရောက်အောင် ရှင်းပြသော သဒ္ဒါအကျဉ်း ဖြစ်လေသည်။

ပါဠိသိက္ခာကျမ်းငယ်၌ ပါဠိဝါကျတို့ကို လွယ်လွယ်ကလေးများ ဆောက်တည်ပုံ, အရေးတကြီး အသုံးပြုရမည့် နာမ်ဂိုဏ်း အာချာတ်ဂိုဏ်းမှ အချို့အဝက်များကို ယူ၍ ဖော်ပြထားပုံတို့ကို တွေ့နိုင်ပါသည်။

သဒ္ဒါကျဉ်း၌ကား သန္ဓိပုဒ်စပ် ပုဒ်ဖြတ်များ, ယင်းတို့ကို ကစ္စည်းကျမ်း ရူပသိဒ္ဓိကျမ်းတို့မှ အတော်စုံစုံလင်လင် ယူ၍ ဖော်ပြထားပါသည်။ ထို့ပြင် တဒ္ဓိတ်ပိုင်းဆိုင်ရာမှ တဒ္ဓိတ်ပုဒ်များ, ကိတ်ပိုင်းမှ ကိတ်ပုဒ်များ, သမာသ်ပိုင်းဆိုင်ရာမှ သမာသ်ပုဒ်များကို ယူ၍ သန္ဓိကျဉ်း, သမာသ်ကျဉ်း, တဒ္ဓိတ်ကျဉ်း, ကိတ်ကျဉ်းဟု အမည် အသီးသီး ပေးထားသည်ကို တွေ့ရပါမည်။

ဤသို့ စီစဉ်ပေးလိုက်သဖြင့် သဒ္ဒါပိုင်းဆိုင်ရာ သင်ကြားကျက်မှတ်ဖို့ အချိန်တွေ အများကြီး သက်သာသွားသည်၊ သိလည်း သိလွယ်၏၊ လိုရင်းကို မြန်မြန်ရောက်အောင် ပို့ပေးခြင်းပင် ဖြစ်သည်။

ဤပါဠိသိက္ခာနှင့်သဒ္ဒါကျဉ်းကို ပိုင်နိုင် ကြေညက်လျှင်ပင် ပါဠိဝါကျများ ခပ်တိုတိုနှင့် ဘုရားဟောပါဠိတော် မဟာဝါ စူဠဝါ ပရိဝါ စသည်တို့ကို (ဆရာ၏ အကူအညီဖြင့်) စမ်း၍ သွားနိုင်နေလေပြီ၊ ဤမျှပင် အကျိုးသက်ရောက်မှု ပေးနိုင်လေသည်၊ သက်တမ်းတိုသောခေတ်တွင် အချိန်တိုတိုဖြင့် သိလွယ်တတ်လွယ်ဖို့ အရေးကြီးသည် မဟုတ်ပါလော။

## အခြေပြုသဒ္ဒါတွဲဖက်

### စာမျက်နှာ – ၁၄၂။
### စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၁၆။

ဤစာအုပ်ငယ်မှာ ပါဠိပညာ အခြေခံသင်စ စာသင်သားများအတွက် ရည်မှန်းပြုစုတော်မူထားသည်၊ သဘောတူသော အုပ်စုပုဒ်အပေါင်းကို "ဂဏ-ဂိုဏ်း"ဟု ခေါ်ရ၏၊ သဒ္ဒါပညာသင်ကြားရာ၌ နာမ်ပုဒ်၊ အာချာတ်ပုဒ်၊ ကိတ်ပုဒ်စသော နာမည်တို့ကို တွေ့ရမည်ဖြစ်သည်။

ထိုတွင် နာမ်ပုဒ်အပေါင်းကို "နာမ်ဂိုဏ်း" အာချာတ်ပုဒ်အပေါင်းကို "အာချာတ်ဂိုဏ်း" ဟူ၍ ခေါ်ဝေါ်ထားသည်၊ နာမ်ပုဒ် တစ်ခု တစ်ခုကို သူ့အုပ်စုနှင့်သူ၊ သူ့ဂိုဏ်းနှင့်သူ ပထမာ ဒုတိယာ စသော ဝိဘတ်အစဉ်ကျအောင် စီတန်းထားမှုကို "ပဒမာလာ"ဟု ခေါ်၏။ (ပဒ-ပုဒ်၊ မာလာ-အစဉ်မတန်း)

ရှေးက အခြေပြုသဒ္ဒါ နာမ်ပိုင်း သင်ယူပြီးလျှင် နာမ်ဂိုဏ်းကို ဆက်လက် လေ့လာ ကျက်မှတ်ရ၏၊ ထို့အတူ အာချာတ်ပိုင်းကို သင်ယူပြီးလျှင်လည်း အာချာတ်ဂိုဏ်းကို ဆက်လက် ကျက်မှတ်ကြရသည်၊ ဤနာမ်ဂိုဏ်းနှင့် အာချာတ်ဂိုဏ်းကြေလျှင် ပါဠိစီကုံးရေးကိစ္စ၊ ဂါထာဖွဲ့ကုံးရေးကိစ္စတို့၌ အထောက်အကူများစွာ ရရှိတော့၏၊ ယခုအခါတွင်ကား အခြေပြုသဒ္ဒါကိုပင် မသင်သေးဘဲ နာမ်ဂိုဏ်း အာချာတ်ဂိုဏ်း အကျဉ်းကိုပင် စ၍ သင်တော့၏။

ဤနာမ်ဂိုဏ်း အာချာတ်ဂိုဏ်းကို သင်ယူမည့်သူသည် ငယ်ရွယ်သူများ ဖြစ်မည်ကို ဆရာတော်က ကြိုတင်သိထားပြီးဖြစ်သည့်အတိုင်း ငယ်ရွယ်သူများ ကြိုက်တတ်သော စာချိုးလေးတို့ဖြင့် မွမ်းမံထား၏၊ ဥပမာ - "ကသုတ်ကသက် ရုပ်တွက်ရာမှာ၊ သုတ်အနက်သာ ရှုစားပေတော့လေး"ဟူ၍လည်းကောင်း၊

"နောက်နောက်ထုတ်ချက် ရုပ်မခက်ပါပြီ၊ သုတ်အနက်သာ ကြေကြေစေကွဲ့လေး"ဟူ၍လည်းကောင်း၊

"ဂေါဂိုဏ်းအတွက် နာမ်ရုပ်တွေမှာ၊ အတန်ရှုပ်ပွေ ခက်ခဲပါသတဲ့လေး"ဟူ၍လည်းကောင်း မွမ်းမံထားသဖြင့် စာသင်သားများ စိတ်ရွှင်လန်းရလေတော့သည်။

## အခြေပြုသဒ္ဒါ

### စာမျက်နှာ – ၆၃၅။
### စတင်ရိုက်နှိပ်သောခုနှစ် – ၁၂၉၇။

ရှေးခေတ်က သဒ္ဒါသင်ကြလျှင် အလွန်ကျယ်ပြန့်ရှည်လျားသော နည်းတို့ဖြင့် အချိန်ကြာမြင့်စွာ သင်ကြားကြရ၏၊ ပါဠိပုဒ်ကလေး တစ်ပုဒ်ကိုပင် လိင် ဝုစ် ဝိဘတ် အနေအထား တည့်မတ်မှန်ကန်အောင် ရုပ်တွက် တည်ဆောက်ရသည်မှာ အလွန်ရှည်လျားစွာ ဆို၍ ရွတ်၍ တည်ဆောက်ကြရ၏၊ အချိန် ကြာညောင်း၏၊ အသိလည်း ခက်လှသည်။

ထို့ကြောင့် သဒ္ဒါကို အကြိမ်ကြိမ် အခေါက်ခေါက် ပြန်၍ သင်ယူကြရ၏၊ ၉ ခေါက်လောက် သင်ခါမှ ပြီးပြီးပြောက်ပြောက်လောက်သာ ရိပ်မိတတ်ကြသည်၊ သို့ဖြစ်၍ "သဒ္ဒါကိုးခေါက် စာပြီးပြောက်"ဟု အဆိုပြုကြသည်။

အချို့မှာ ၉ ခေါက်လောက် ပြန်၍ သင်သော်မှလည်း နားမလည်နိုင်အောင် ဖြစ်ခဲ့ကြသဖြင့် စိတ်ပျက်၍ တပ်လန်သွားတတ်ကြလေသည်၊ ထိုအခါ "သဒ္ဒါလန်သည်"ဟု ပြောစမှတ် ပြုကြ၏။

"ဤသို့ ဖြစ်ကြရသည်မှာ သင်ခါစပုဂ္ဂိုလ်အား အလွန်ရှည်လျားသော အဆိုအရွတ် စည်းကမ်းစနစ်ကြီးတို့ဖြင့် ဖန်တီးထားသောကြောင့် ဖြစ်ရသည်"ဟု ဆရာတော် အရှင်ဇနကာဘိဝံသက ကောက်ချက်ချ၏၊ ထိုသို့ ကောက်ချက်ချပြီးလျှင် စာသင်ငယ် ဉာဏ်နုသူတို့နှင့် လိုက်ဖက်ရုံမျှ အခြေခံရရုံပိုင်းကို ခွဲစိတ်၍ အခြေပြုပေးသော သဒ္ဒါတစ်မျိုးကို စီရင်၏။

ထို့ကြောင့် ဤသဒ္ဒါကို "အခြေပြုသဒ္ဒါ"ဟု ဆရာတော်က အမည်ပေးထား၏၊ ကစ္စည်းသဒ္ဒါကို အကျဉ်းချုံး၍ အခြေခံရရုံ သုတ်ကို အနက်တိုတိုပေး၊ ရုပ်ကို ကျဉ်းကျဉ်းတွက်၊ ခက်သည့်အရာတို့ကို ဖယ်ရှားထားခဲ့ပြီးလျှင် စီရင်ထားတော်မူသည်၊ စာသင်ငယ်များ နားလည်ကြသဖြင့် အားလုံးက နှစ်သက်ကြလေသည်၊ အတော်အတန် ခက်သော အရာများကိုဆိုလျှင် မှတ်မိလွယ်အောင် ဆောင်ပုဒ်လင်္ကာကလေးတို့ဖြင့်ပင် မွမ်းမံခြယ်မှုန်း ဖြည့်သွင်းထားသေးသည်၊ ဤကျမ်းငယ်တွင် အခြေခံဖြစ်စေမည့် ဓာတ်နက်များကိုလည်းကောင်း, အခြေပြုစာစပ်ကိုလည်းကောင်း ထည့်သွင်းထားသဖြင့် စာသင်သားများ လွယ်ကူစွာ သိနိုင်ဖို့ တတ်နိုင်ဖို့အကြောင်း ဖြစ်တော့သည်။

ဤကျမ်းစာနိဂုံးတွင် "ဤကျမ်းစာထက် ကောင်းသည့် အခြား အခြေပြုသဒ္ဒါကျမ်း ပေါ်ပေါက်လာပါလျှင် (ဤကျမ်းသည် အခွင့်ပေးသောအားဖြင့်) ကွယ်ပရစ်ပါစေ"ဟု ဆုတောင်းထားသေးသည်၊ သဘောထားကြီးသော အဓိပ္ပာယ်ကို ဖော်ပြရာ ရောက်တော့၏။

## ကစ္စည်းဘာသာဋီကာ

**စာမျက်နှာ – ၅၄၈ (ပ–တွဲ)၊ ၆၁၄ (ဒု–တွဲ)။**

**စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၁၈ (ပ–တွဲ)၊ ၁၃၂၅ (ဒု–တွဲ)။**

ကစ္စည်းကျမ်းသည် မြန်မာပြည်သို့ ရှေးဦးစွာ ရောက်လာခဲ့၍ ယနေ့ထက်တိုင် တည်မြဲနေသည့် ပါဠိသဒ္ဒါကျမ်းတစ်ခု ဖြစ်သည်၊ ကစ္စည်းသဒ္ဒါကျမ်းအလျင် ရောက်လာဟန်ရှိသော မဟာနိရုတ္တိနှင့် စူဠနိရုတ္တိသဒ္ဒါကျမ်း စသော သဒ္ဒါကျမ်းများသည် ကစ္စည်းသဒ္ဒါလောက် လွယ်ကူစွာ ပါဠိသဒ္ဒါဉာဏ်ကို မပေးနိုင်သောကြောင့် ကွယ်ပျောက် တိမ်ကောသွားကြသည်ဟု ပညာရှင်များ ခန့်မှန်းကြသည်။

ကစ္စည်းသဒ္ဒါကျမ်းသည် ရှေးဦးစွာ ပေါ်ထွက်ခဲ့သော ပါဠိသဒ္ဒါကျမ်း ဖြစ်သည့်ပြင်, ခေတ်အလျောက် သုတ် ဝုတ္တိ ပြယုဂ် ဥဒါဟရုဏ် ကီ စသည်တို့ဖြင့် မြိုင်ဆိုင်စုံလင်သည့်ပြင် န္យာသ ရူပသိဒ္ဓိ ကစ္စာယနဝဏ္ဏနာ သံပျင် စသော အဖွင့်ကျမ်းများကလည်း ပြည့်စုံတောင့်တင်းသောကြောင့် ရှေးဆရာကြီးများ လက်ခံခဲ့ကြသည်၊ ကစ္စည်းသဒ္ဒါကျမ်းနောက်မှပေါ်သည့် သဒ္ဒါကျမ်းများသည် ကစ္စည်းသဒ္ဒါထက် နောက်ပေါ်ကျမ်းဖြစ်သောကြောင့် ပါဠိသဒ္ဒါနည်းအရာ စုံလင်သလောက် စုံလင်သော်လည်း ကစ္စည်းသဒ္ဒါက မျက်စိ နား ကျွမ်းဝင် ယဉ်ပါးနေသည်ကတစ်ကြောင်း, ဓာတဒ် အရှင်ကစ္စည်းဟူသော ဟိတ်အရှိန်အဝါ ရှိနေသည်ကတစ်ကြောင်း, ဇိနဝစနယုတ္တံ ဟိ စသော သုတ်များက အကာအကွယ်ပေးသည်ကတစ်ကြောင်းတို့ကြောင့် ကစ္စည်းကျမ်းကို ပျောက်ကွယ်သွားလောက်အောင် မတွန်းနိုင်ကြချေ၊ ကစ္စည်းကျမ်းသည် နောက်ပေါ်သဒ္ဒါကျမ်းများလောက် မစုံလင် ခေတ်မမီဟု အပြစ်ပြောကြသော်လည်း 538

ကစ္စည်းကျမ်းကိုသာ သင်ယူလေ့လာပြီး ပိဋကတ် အဋ္ဌကထာ ဋီကာကို မွေ့နှောင့် ချောက်ချားနေသူ ပါဠိပိဋကပညာရှင်ကြီးများ အထင်အရှား အစဉ်မပျက် ပေါ်ထွက်နေသည် ဖြစ်သောကြောင့်လည်း ကစ္စည်းသဒ္ဒါကျမ်းမှာ ဂုဏ်မနွမ်းနိုင်ခြင်းလည်း ဖြစ်နိုင်ပေသည်၊ ထို့ကြောင့် ကစ္စည်းကျမ်းကို "သဒ္ဒါကြီး"ဟု ဂုဏ်ပြု ခေါ်ဝေါ်ခဲ့ကြသည်။

ကစ္စည်းဘာသာဋီကာကျမ်းပြုဆရာတော် အရှင်ဇနကာဘိဝံသ ကိုယ်တော်တိုင်ပင်လျှင် ဆရာရင်း ဖြစ်တော်မူသည့် အဘယာရာမဆရာတော်ကိုယ်တိုင် မြန်မာပြည်သို့ ဆောင်ယူကာ နိဿယကျမ်း ပြုစု ပွဲထုတ်ပေးသည့် မောဂ္ဂလ္လာန်သဒ္ဒါကျမ်း ထင်ရှားရှိနေပါလျက် ကစ္စည်းသဒ္ဒါကျမ်းက မြန်မာပြည်၌ တွင်ကျယ်နေသောကြောင့် ကစ္စည်းအဖွင့်ဘာသာဋီကာရေးရကြောင်း ဤကျမ်း၏ နိဒါန်း၌ ဖော်ပြရေးသား ထားပေသည်။

အဘယ်အကြောင်းကြောင့် ရေးသည်ဖြစ်စေ ဆရာတော်သည်ကား ပညာပါရမီဉာဏ် ရင့်သန်သည့် ဘာသာဋီကာကျမ်းပြု ဆရာတော်တစ်ပါးဖြစ်သောကြောင့် ကစ္စည်းသဒ္ဒါကြီး၏ ဆိုလိုရင်း သဘော အဓိပ္ပာယ်ကို စာသင်သားများ သဘောပေါက် နားလည်စေရန် ကွက်ကွက်ကွင်းကွင်း ရှင်းလင်းဖော်ပြနိုင် ပါပေသည်။

ဆရာတော် ပြုစုသည့် အခြေပြုသဒ္ဒါ၊ ကစ္စည်းဘာသာဋီကာ၊ ရူပသိဒ္ဓိဘာသာဋီကာကျမ်းများကို မှီငြမ်းပြုစု၍ ကစ္စည်းသဒ္ဒါကို တတ်ကျွမ်းအောင် လေ့လာနိုင်ပါလျှင် ပိဋက အဋ္ဌကထာ၊ ဋီကာ တောဂနိုင် မှာ မမောနိုင်ဘဲ သဘောပိုင်ကြမည် ဖြစ်ပါသည်။

## ရူပသိဒ္ဓိဘာသာဋီကာ

**စာမျက်နှာ – ၆၁၅ (ပ–တွဲ)၊ ၆၀၂ (ဒု–တွဲ)။**
**စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၁၈ (ပ–တွဲ)၊ ၁၃၁၉ (ဒု–တွဲ)။**

"ရူပသိဒ္ဓိ"ကျမ်းသည် ကစ္စည်းသဒ္ဒါကျမ်းကို မူထားပြီး လေ့လာသူများ သဒ္ဒါအရာမှာ တစ်ဖက်ကမ်း ရောက် တတ်မြောက်စေရန် အမွှမ်းတင် ပြင်ဆင်စီရင်ထားသည့် ကျမ်းဖြစ်သည်။

"ရူပသိဒ္ဓိ"ဟူသည်မှာ "သဒ္ဒါမှာ ရုပ်, သင်္ဂြိုဟ်မှာ သရုပ်"ဟူသော မြန်မာစကားပုံအတိုင်း "သဒ္ဒါ အရာမှာ အရေးကြီးလှသည့် ရုပ်ကို သဘောပေါက်နားလည် အောင်မြင်ပြီးစီးစေသည့်ကျမ်း"ဟူ၍ ဆိုလိုပါသည်၊ ရုပ်ဟူသည်မှာလည်း ပါဠိသဒ္ဒါပုဒ် ဝေါဟာရစကားလုံးဟု ဆိုလိုပါသည်၊ ယင်းပုဒ် ဝေါဟာရ ရုပ်ကို ပုဒ် ဓာတ် ပစ္စည်း ဝိဘတ်အနက် အဓိပ္ပာယ် အားလုံးကို တတ်သိနားလည်ခြင်းကိုပင် ရူပသိဒ္ဓိရုပ်ပြီး သည်ဟု ဆိုပါသည်၊ တစ်ဆင့်တက်၍ ရူပသိဒ္ဓိရုပ် ပြီးစီးစေရန် လေ့လာသူများအတွက် ရေးသားပြုစုသည့် ကျမ်းကိုလည်း ရူပသိဒ္ဓိကျမ်းဟု ခေါ်ပါသည်။

ယင်းရူပသိဒ္ဓိကျမ်းသည်ကား နာမည်နှင့်လိုက်အောင် သဒ္ဒါအရာမှာ ပါရဂူရောက် တတ်မြောက်စေ နိုင်သည့် ကျမ်းတစ်ဆူ ဖြစ်သည်၊ မြန်မာပြည်သာသနာဝင်၌ ရူပသိဒ္ဓိကျမ်း အကူအညီဖြင့် ကစ္စည်း သဒ္ဒါကြီးကို လေ့လာဆည်းပူးပြီး ပါဠိသဒ္ဒါကို ကျွမ်းကျင်တတ်မြောက်ပြီး ပါဠိတော် အဋ္ဌကထာ ဋီကာကြီး များကို ပို့ချသင်ပေးနိုင်သူ နိဿယ ပြန်ဆိုနိုင်သူ, ဂဏ္ဌိအဖွင့် ရေးသားနိုင်သူ ရဟန်းပညာရှိ လူပညာရှိ များစွာ ရှိခဲ့ပေသည်။

ဤမျှ သာသနာမှာ ကျေးဇူးများသည့် ရူပသိဒ္ဓိကျမ်းကို သီဟိုဠ်ကျွန်းသား "အရှင်ဗုဒ္ဓပိယ"ရေးသား ပြုစုတော်မူခဲ့သည်၊ ရူပသိဒ္ဓိကျမ်း၏ အဖွင့်ဋီကာကိုလည်း ကျမ်းပြုဆရာတော်ကိုယ်တိုင်ပင် ဖွင့်ဆိုတော် မူသည်၊ ဤမျှ သာသနာ၌ ထင်ရှား၍ ကျေးဇူးများသည့် ရူပသိဒ္ဓိကျမ်းကို မြန်မာဘာသာတတ်သူတိုင်း လေ့လာနိုင်စေရန် ဆရာတော် အရှင်ဇနကာဘိဝံသက ဘာသာဋီကာ ရေးသားပြုစုတော်မူသည်၊ များပြား ကြီးမားလှ၍ ပထမတွဲ ဒုတိယတွဲ နှစ်တွဲ ခွဲရိုက်နှိပ်သည်။

## ဘောဒစိန္တာဘာသာဋီကာ

**စာမျက်နှာ – ၃၇၂။**
**စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၂၃။**

မြန်မာပြည်ဖြစ် ပါဠိဘာသာရေးကျမ်းများတွင် သဒ္ဒတ္ထဘေဒစိန္တာကျမ်းသည် အခက်သုံးမျိုးရှိသည့်ကျမ်းဟူ၍ ဆရာစဉ်ဆက် ပြောဆိုမှတ်သားခဲ့ကြသည်၊ အခက်သုံးမျိုးဟူသည်မှာ…

၁။ ကျက်မှတ် ရွတ်ဆိုရန် ခက်သည်၊

၂။ မြန်မာပြန် အနက်ထင်ရန် ခက်သည်၊

၃။ ကျမ်းဆရာ၏ ဆိုလိုရင်း အဓိပ္ပာယ်သိရန် ခက်သည်ဟူသော အခက်သုံးမျိုး ဖြစ်သည်။

သဒ္ဒတ္ထဘေဒစိန္တာကျမ်းသည် သဒ္ဒါဘက်ဆိုင်ရာကျမ်း ဖြစ်သည်၊ သဒ္ဒါဆို၍ ပါဠိသဒ္ဒါသက်သက်မဟုတ်၊ မည်သည့်ဘာသာနှင့်မဆို ဆက်နွယ်ကျွမ်းဝင်နိုင်သည်။

၁။ သဒ္ဒါခေါ် စကားလုံး၊

၂။ အတ္ထခေါ် အနက်အဓိပ္ပာယ်၊

၃။ သဒ္ဒတ္ထ - သဒ္ဒါစကားလုံး အနက်အဓိပ္ပာယ် နှစ်ပါးစုံတို့ကို ကြံစည်ဖွင့်ပြရေးသားသောကျမ်းဖြစ်သည်၊ သဒ္ဒတ္ထဘေဒစိန္တာ-"သဒ္ဒါ၊ အနက်၊ သဒ္ဒါအနက် ထူးခြားချက်ကို ကြံဆသည့်ကျမ်း"ဟူသောအမည်နှင့် လိုက်လျောညီညွတ်လှပါပေသည်၊ ဤကျမ်း၏ ခက်ပုံသဘောကို ပုံစံမျှထုတ်ပြရလျှင် "သဒ္ဒါသည်နိစ္စ-တည်မြဲခြင်း ရှိ၏၊ အနိစ္စ-တည်မြဲခြင်း မရှိ၊ နေဝနိစ္စာ နာနိစ္စ-တည်မြဲခြင်းလည်း မဟုတ်၊ မတည်မြဲခြင်းလည်း မဟုတ်"ဟူသော အရှုပ်အထွေး ကြီးကြီးမားမားကို ဆရာအမျိုးမျိုး၏ ဝါဒနှင့်တကွ ပါဠိကဗျာဂါထာရေး၍ ဖော်ပြခြင်းက မည်မျှ ခက်သည်ကို သိနိုင်သည်။

ယင်းသို့ အခက်သုံးမျိုးရှိသော သဒ္ဒါကျမ်းကိုမှ ရွေး၍ မန္တလေးမြို့ ပရိယတ္တိသာသနဟိတအသင်းစာမေးပွဲနှင့် ရန်ကုန်မြို့ စေတိယင်္ဂဏပရိယတ္တိဓမ္မာနုဂ္ဂဟအသင်းစာမေးပွဲများက ရွေးချယ်ပြဋ္ဌာန်းထားသည်၊ စာသင်တန်း စာဖြေသံဃာတော်များ ဖြေရသည်။

ပါဠိဘာသာရေး အဖွင့်ဋီကာကျမ်းများ ရှိပါ၏၊ သို့သော် လွယ်ကူမလာပါ၊ အနက်အဓိပ္ပာယ်ပြန်ကျမ်းများ ရှိပါ၏၊ သို့သော် ခက်မြဲပင်။

ယခု တောင်မြို့ မဟာဂန္ဓာရုံဆရာတော် အဂ္ဂမဟာပဏ္ဍိတ အရှင်ဇနကာဘိဝံသက "ဦး-စာသင်သားများအတွက် လွယ်စေသတည်း"ဟု မန်းမှတ်အားထုတ်၍ ဘာသာဋီကာရေးသား ဖွင့်ဆိုတော်မူလိုက်သည်၊ သဒ္ဒါ၏ သဘောကို လေးလေးနက်နက် လေ့လာကျက်စားလိုသူများအတွက် ဝမ်းသာဖွယ်ဖြစ်ပါတော့သည်။

## ကစ္စာယနသာရဘာသာဋီကာ

**စာမျက်နှာ – ၁၁၀။**
**စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၂၃။**

"သာရ"ဟူသည် "အနှစ်-အသား-အဆီ"ဟု အဓိပ္ပာယ်ရ၏၊ "ကစ္စာယနသာရ-ကစ္စည်းကျမ်း၏ အနှစ် အသား အဆီ"ဟု ဆိုလိုသည်၊ အနှစ် အသား အဆီနှင့် အလားတူသော "ခက်ပေ့"ဆိုသည့် အချက်အလက်များကို ရွေးစိစစ်၍ "ဂဏ္ဌိမှတ်စု"သဘောမျိုးဖြင့် ရေးသားထားအပ်သောကျမ်း ဖြစ်၏။

ဤကျမ်းငယ်ကို ပုဂံမြို့ အရှင်မဟာယသ စီရင်ရေးသားသည်ဟု ဆိုထား၏၊ ဇယ်ဒွါသကကျမ်းကို မှီ၍ စီရင်သည်ဟု ဆိုသည်၊ သို့သော် မြန်မာနိုင်ငံ၌ စီရင်သောကျမ်းနှင့် မတူဟု ဆရာတော် အရှင်ဇနကာဘိဝံသက ဤကျမ်း၏ နိဒါန်းတွင် ဆိုထား၏၊ အဘယ့်ကြောင့်ဆိုသော် ဇယ်ဒွါသကကျမ်းကို ဤမြန်မာနိုင်ငံ၌ မကြားဖူး, မတွေ့ဖူးရသောကြောင့်ဟု ဆိုထားပြန်သည်။

ဆရာတော်က ဆိုပြန်သည်၊ "မိမိသည် အချိန်ကုန်ရ, ဉာဏ်ဝင်စားရချင်း တူလျှင် ပိဋကတ်တော်၌သာ ဉာဏ်ဝင်စားလို, အချိန်ကုန်လို၏၊ ပိဋကတ်တော်၏ အစွန်အဖျားကျသော ဤသဒ္ဒါငယ်ကျမ်းမျိုး၌ အချိန်မကုန်စေလိုပါ"ဟု ကျမ်း၏ နိဒါန်းတွင် တိတိလင်းလင်း ဆိုထားသည်။

"သို့ရာတွင် မိမိကို အားကိုးသော စာသင်သားတို့က ခေတ်အားလျော်စွာ စာမေးပွဲများကို ဖြေဆိုလိုကြသည်၊ မန္တလေး ပရိယတ္တိသာသနဟိတနှင့် ရန်ကုန် စေတိယင်္ဂဏတို့ကလည်း ဤကျမ်းငယ်ကို ပြဋ္ဌာန်းထားကြပြန်သည်၊ ထို့ကြောင့် မိမိကို အားကိုး၍ စာမေးပွဲဖြေလိုကြသော စာသင်သားတို့အတွက် ရည်ရွယ်၍ ဤကျမ်းငယ်ကို ဖွင့်ဆိုရပါသည်"ဟု ဆရာတော်က ဆိုထားသည်၊ လေ့လာ တတ်မြောက်ကြပါစေ။

## အလင်္ကာရဘာသာဋီကာ

### စာမျက်နှာ – ၅၇၆။
### စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၂၁။

"အလင်္ကာရ"ဟူသော ပါဠိမှာ "အဆင်တန်ဆာ"ဟု အဓိပ္ပာယ်ရသည်၊ အပြည့်အစုံကား "အဆင်တန်ဆာ ခြယ်မှုန်းပုံကို ပြသောကျမ်း"ဟု ဆိုလိုသည်၊ ဆန်းကျမ်းနှင့်အညီ ဖွဲ့သီထားအပ်သော ဂါထာများသည်လည်းကောင်း, လိင် ဝုစ် ကံ ကတ္တား မမှားရအောင် စီထားသော စုဏ္ဏိယဝါကျများသည်လည်းကောင်း ပင်ကိုအားဖြင့် အပြစ်ကင်းကြကုန်၏၊ ဥပမာအားဖြင့်ဆိုရသော် နဂိုမူလကပင် ကိုယ်နေဟန်ထား အလုံးအရပ် အချိုးအဆစ် ပြေပြစ်သော အမျိုးသမီးငယ်တစ်ဦးနှင့် တူသည်။

ထိုအမျိုးသမီးငယ်သည် ကိုယ်နေဟန်ထား အချိုးအဆစ် ပြေပြစ်နေရုံနှင့် မလုံလောက်သေးပါ၊ သူနှင့် လိုက်ဖက်သော လုံချည် အင်္ကျီ တဘက် ပဝါ ဒွါဒရာဘယက် လက်ကောက် ဆွဲကြိုး ကောင်းနိုးဖွယ်ရာ တန်ဆာ နားကပ်တို့ဖြင့် တဖျတ်ဖျတ်နေအောင် ဆင်သ ခြယ်မှုန်းပေးလိုက်မှ ရှုမဝအောင် လှပကြော့ရှင်းသည့် ဖော့ယမင်းကလေးသဖွယ် ဖြစ်လာနိုင်ပါသည်။

ယင်းအလားပင် ဤအလင်္ကာရကျမ်းကား လုံချည် အင်္ကျီ တဘက် ပဝါ ဒွါဒရာဘယက် လက်ကောက် ဆွဲကြိုး ဖဲ ပိုး ကတ္တီပါစသော တန်ဆာများနှင့် တူကြကုန်၏၊ ဆိုလိုသည်မှာ သဒ္ဒါအနေအထား ကံ ကတ္တား လိင် ဝုစ်တို့ မမှားအောင် ဖွဲ့ကုံးရေးသားထားရုံမျှဖြင့် မလုံလောက်သေးပါ၊ ယင်း ပါဠိဝါကျများကို ဤအလင်္ကာဂုဏ်များ တန်ဆာများဖြင့် ခြယ်သ မွမ်းမံပေးနိုင်မှသာ မင်းစိုးသဘင် ပွဲဝင်ထိုက်သော အစီအကုံး အနှုန်းအဖွဲ့မျိုး ဖြစ်နိုင်သည်ဟု ဆိုလိုပါသည်။

ထို့ကြောင့် စာပေ ရေးသားလိုသော ပုဂ္ဂိုလ်တို့သည် ဤအလင်္ကာကျမ်းကို လွှတ်ထားခဲ့၍ မရပါ၊ မတတ်ကျွမ်း၍ မဖြစ်ပါ၊ တတ်ကျွမ်းအောင် သင်၍ အလင်္ကာတို့ဖြင့် မွမ်းမံခြယ်သ ရေးသားမှသာ မင်းပွဲစိုးဝင် စင်တော်က ကောက် ဂန္ထဝင်မြောက် ဖြစ်နိုင်ပါမည်။

ဤအလင်္ကာကျမ်း၌ ဦးစွာ ပထမ ပဒဒေါသ ရှစ်ပါး, ဝါကျဒေါသ ကိုးပါး, ဝါကျတ္ထဒေါသ ခြောက်ပါးတို့ကို ပြဆိုထားသည်၊ ပြီးမှ ဂုဏ် ဆယ်ပါး, ရသ ကိုးပါးတို့ကို ဖော်ပြထား၏၊ အလွန် စိတ်ဝင်စားဖွယ် လေ့လာဖွယ် ကောင်းပါသည်၊ စာရေးလိုသူများအဖို့ မပါလျှင် မပြီးသော ကျမ်းပင် ဖြစ်တော့သည်။

ဥပမာ-ပဒဒေါသ ၈ ပါးကို ပြဆိုရာ၌ "စိန်ကို ပေး၍ သူဌေးဖြစ်"ဟူသောစကားတွင် စိန်ကို ပေးတိုင်း သူဌေး မဖြစ်နိုင်၊ စိန်သည် အဆိပ်စိန်, ကျောက်မျက်ရတနာစိန်ဟု ၂ မျိုး ရှိနေ၏၊ ကျောက်မျက်ရတနာ စိန်ကို ပေးမှသာ သူဌေးဖြစ်နိုင်၏၊ ဤသို့ အဓိပ္ပာယ် ၂ မျိုးရသော စကားကို ရှောင်ရှားရမည်ဟု မှာထား မိန့်ဆိုသည်၊ ထို့အတူ "အရပ်ဆယ်မျက်နှာ ထွန်းလင်းနိုင်သော ပိုးစုန်းကြူးကလေး"ဟု ဆိုရာ၌ ပိုးစုန်းကြူး ကလေးနှင့် မတန်မရာ ပိုမို လွန်ကဲစွာ ချီးကျူးလွန်းလျှင်လည်း အပြစ်၊ အဓိပ္ပာယ် မပေါ်နိုင်ဘဲ အသိခက် လွန်းအောင် ရေးလျှင်လည်း အပြစ်၊ "တောင်ထိပ် ကြာပေါက်, အနောက် နေထွက်, ကွဲအက် မြင်းမိုရ်, မီးကို မပူ, ချမ်းစွဟူ၏" စသည်ဆိုရာ၌လည်း လောကသဘာဝနှင့် ဆန့်ကျင်သောကြောင့် အပြစ် စသည် စသည် ဖော်ပြထားရာ အလွန် စိတ်ဝင်စားဖွယ် ကောင်းလှပါသည်။

ဂုဏ် ၁၀ ပါးကို ပြရာ၌လည်း အနက်အဓိပ္ပာယ် သိလွယ်စေရန် စာရေးသောအခါ၌ စပ်သင့်သော ပုဒ်တို့ကို နီးနီးနားနား ထားပေးလျှင် ပသာဒဂုဏ်, အကျယ်ကို အကျဉ်းချုံး၍ အကျဉ်းကို အကျယ်ချဲ့ ရေးခြင်းမျိုးသည် ဩဇဂုဏ်, သာယာနာပျော်ဖွယ် နားဝင်ချို ပြေပြစ်သော စကားလုံးတို့ကို သုံး၍ ရေးလျှင် မဓုရတာဂုဏ် စသည်ဖြင့် ဖော်ပြထားသည်မှာလည်း အားရစရာ ကောင်းလှပါသည်။

ဆိုခဲ့ပြီး အပြစ်တို့မှ ကင်းလွတ်စေ၍ ဆိုခဲ့ပြီး ဂုဏ်တို့ဖြင့် မွမ်းမံခြယ်သပါလျှင် စာဖတ်သူမှာ အတွင်း စိတ်ဓာတ်၌ တဖျပ်ဖျပ် ဖြစ်ပေါ်လာသော ပြုံးရွှင်ခြင်း, ရယ်မောရခြင်း, ချစ်ကြိုက်ရခြင်း, သနားရခြင်း, လွမ်းဆွတ်ခြင်း, ကြေကွဲခြင်း, အံ့ဩခြင်း စသော အရသာတို့ ပေါ်လာနိုင်ပါသည်၊ ရသ ၉ ပါးတွင် အပါအဝင်များ ဖြစ်ကြ၏၊ ဤသို့ စသည်ဖြင့် အလွန်စိတ်ဝင်စားဖွယ် လေ့လာဖွယ်ကောင်းသော အချက်အလက်များ ပါရှိသည့် ကျမ်းတစ်ကျမ်း ဖြစ်ပါသည်။

## ကထာသလ္လာပသိက္ခာ

### စာမျက်နှာ – ၁၄၀။

### စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၄၁။

ကထာ-စကား၊ သလ္လာပ-အတူတကွ လက်ဆုံကျ၍ ပြောဆိုခြင်း၊ သိက္ခာ-သင်ကြားပေးခြင်း၊ သင်ကြားပေးသောကျမ်း၊ အားလုံးစုပေါင်းအဓိပ္ပာယ်မှာ "ကထာသလ္လာပသိက္ခာ-စကားပြောသင်ကျမ်း"ဟု ဆိုလို၏၊ ဤကျမ်းငယ်ကို ပြုစု ပြီးစီးသည်မှာ ကြာပြီ ဖြစ်သည်၊ မဟာဂန္ဓာရုံကျောင်းတိုက်ကို "ပရိယတ္တိ စာသင်တိုက်"အဖြစ် စတင်တည်ထောင်စကပင် ဖြစ်၏။

သို့သော် ဤကဲ့သို့ ပုံနှိပ်စာလုံးဖြင့် တည်ရှိခြင်းမျိုး မဟုတ်ပါ၊ လက်ရေးမူဖြင့်သာ တည်ရှိခဲ့သဖြင့် အဆင့်ဆင့် ရေးကူး၍ သင်ယူခဲ့ကြရသည်၊ လက်ရေးမူဖြင့် နှစ်ပေါင်း ၃၀ ခန့်မျှ ရပ်တည်ပြီးမှ ယခုလို ပုံနှိပ်စာလုံးဘဝသို့ ရောက်လာရသည်၊ စာသင်သားအသစ်တို့သည် ဦးစွာ ပထမ နာမဂိုဏ်း အာချာတ ဂိုဏ်းတို့ကို ကျက်မှတ်ကြရ၏၊ ပြီးမှ ၆ လခန့် ပါဠိသိက္ခာကို သင်ကြားကြရသည်၊ ပါဠိသိက္ခာ ပြီးလျှင်ကား ဤ"ကထာသလ္လာပသိက္ခာ-စကားပြောသင်ကျမ်း"သို့ တစ်ဆင့်လှမ်း၍ တက်ကြရတော့၏။

ဆရာတော်က စာသင်သားများအား ပါဠိနှင့် ရင်းနှီးကျွမ်းဝင်၍ မိခင်၏ ဘာသာကဲ့သို့ ပြောတတ် ရေးတတ်အောင် ရည်ရွယ်ချက်ဖြင့် စီစဉ်အပ်သောကျမ်း ဖြစ်၏၊ ထို့ကြောင့် အမရပူရ မဟာဂန္ဓာရုံတိုက်၌ နေခိုက်တွင် နေ့စဉ် ပုံမှန် စက်ပတ်လည်နေသော အချိန်ကာလအတိုင်း ဆရာတော်က စီစဉ်ထားခြင်း ဖြစ်သည်။

သို့ဖြစ်၍ "ပစ္စူသသမယေ ကထာသလ္လာပေါ - နံနက်စောစော စကားပြောပုံ၊ သယနာဝုဋ္ဌိတ ကာလေ ကထာသလ္လာပေါ - အိပ်ရာထပြီးချိန် စကားပြောပုံ၊ ဗုဒ္ဓါနုဿရဏဝေလာယံ ကထာသလ္လာပေါ-

ဘုရားအာရုံပြုချိန် စကားပြောပုံ၊ ဘတ္တပစနဝေလာယံ ကထာသလ္လာပေါ-ဆွမ်းချက်ချိန် စကားပြောပုံ၊ ယာဝပက္ကသမယာ ကထာသလ္လာပေါ-ဆွမ်းကျက်ချိန်အထိ စကားပြောပုံ၊ ထို့နောက် နံနက် ဆွမ်းစားချိန် စကားပြောပုံ, ဆွမ်းစားပြီးချိန် စကားပြောပုံ, နေ့ဆွမ်းအတွက် မြို့တွင်းသို့ ဝင်၍ ဆွမ်းခံချိန် စကားပြောပုံ, ဆွမ်းခံပြန်လာချိန် စကားပြောပုံ, စာချချိန် စကားပြောပုံ, နေ့ဆွမ်းစားချိန် စကားပြောပုံ, ရေချိုးချိန် စကားပြောပုံ, ကုဋီကိစ္စနှင့်စပ်၍ စကားပြောပုံ စသည်ဖြင့် ညဥ့်အိပ်ချိန်တိုင်အောင် စီစဉ်ထားသည်ကို တွေ့ရပါမည်။

အခန်းပေါင်း ၄၆ ခန်း ပါရှိ၏၊ နှုတ်တက် ကျက်ကြရသည်၊ ဤသို့လျှင် အမာခံ ကျောရိုးအဖြစ် ပါဠိစကားလုံးတို့ကို တစ်နေ့လုံးစာအတွက် နှုတ်တက်ရထားသောအခါ အခြားအခြားသော အကြောင်းအရာတို့နှင့် စပ်၍ ပြောကြရာ၌ အနည်းငယ်မျှသာ ဖြည့်စွက်ရုံ ဖြစ်တော့၏၊ ဤနည်းအားဖြင့် ပါဠိကို လက်က ရေးတတ်ရုံသာမက နှုတ်ကပါ ပြောတတ်အောင် ပြောရဲအောင် စီစဉ်ထားခြင်း ဖြစ်လေသည်။

ဤ"ကထာသလ္လပသိက္ခာ-စကားပြောသင်ကျမ်း"မှာ ပါဠိတော် အဋ္ဌကထာ ဋီကာတို့မှ ကောင်းနိုးရာရာ ဝါကျကလေးများကို ယူ၍ နည်းမှီးပြီး စီစဉ်ထားတော်မူသည်။

## ရုပ်ပုံရှင်ကျင့်ဝတ်

### စာမျက်နှာ – ၂၄၆။

### စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၁၄။

ဗုဒ္ဓဘာသာဝင်မိဘတိုင်း သားယောက်ျားလေး မွေးဖွားလာပြီဆိုလျှင် "ဘယ်တော့ ရှင်ပြုရပါ့မလဲ" ဟူသော မျှော်လင့်ချက်အာသာ ပြင်းပြတတ်ကြသည်၊ အချို့ အဘိုး အဘွားများကမူ "မိမိတို့၏ မျက်စိအောက်တွင် မြေးကလေးများကို ဖန်ရည်စွန်းသော သင်္ကန်းဝတ်ဖြင့် မြင်ချင်သည်"ဟု အာသာဆန္ဒ ပြင်းပြတတ်ကြ၏၊ ထို့ကြောင့် ငယ်ရွယ်သော မြေးကလေးများကိုပင် သင်္ကန်းကို မနိုင်သေးမှန်း သိလျက် ရှင်ပြုပေးတတ်ကြသည်။

ဤသို့ ရှင့်ဘဝရောက်အောင် ပို့ပေးခြင်းသည် အရေးကြီး၏၊ စနစ်တကျ ဖြစ်ဖို့လိုအပ်သည်၊ အဋ္ဌကထာဆရာကမူ "ပဗ္ဗဇ္ဇာဟေသာ ပဋိသန္ဓိဂ္ဂဟဏသဒိသာ-ရှင်သာမဏေဘဝကို ယူခြင်းသည် ပဋိသန္ဓေအသစ် ယူခြင်းနှင့် တူ၏"ဟူ၍ပင် မိန့်ဆိုထား၏၊ ပဋိသန္ဓေယူရာ၌ စနစ်ရှိသော မိဘဝမ်းမှာ မှီခိုကိန်းအောင်း၍ စနစ်တကျ မွေးဖွားလာပြီးလျှင် စနစ်တကျ သင်ပြမှု ခံယူရမှ လိမ္မာယဉ်ကျေးသော ကလေးသူငယ် ဖြစ်လာနိုင်သလို၊ စနစ်တကျ ဥပဇ္ဈာယ်ဆရာထံမှာ ခိုဝင်မိမှ စနစ်ကျသော အဆုံးအမကို ရရှိပြီးလျှင် စနစ်တကျ ဝတ်တတ် စားတတ် နေတတ် ထိုင်တတ် စိတ်ထားတတ်သော သာမဏေကလေး ဖြစ်လာနိုင်သည်ဟု ဆိုလိုသည်။

ဤကဲ့သို့ အရေးကြီးသော အချက်ကို ဆရာတော် အရှင်ဇနကာဘိဝံသက ကိုင်တွယ်၍ သာသနာတော်တွင် စနစ်ကျသော သာမဏေကလေးများ ဖြစ်လာနိုင်ဖို့ရာ သာမဏေကလေးများအတွက် ရည်မှန်း၍ "ဤရှင်ပုံကျင့်ဝတ်"ကို ရေးသားတော်မူသည်၊ ရေးသားရာတွင် ကလေးများအား ပါးစပ်ဖြင့် ရှင်းပြနေသည်ထက် ရုပ်ပုံဖြင့် ပြလျှင် ပို၍ ထင်လွယ် မြင်လွယ်သောကြောင့် ဓာတ်ပုံကလေးများဖြင့်ပါ တန်ဆာဆင်ပြထားသည်၊ ထို့ကြောင့် "ရုပ်ပုံရှင်ကျင့်ဝတ်"ဟု အမည်ပေးထား၏။

ရှင်ပြုသောအခါ ဆံချ ခေါင်းရိတ်သောကိစ္စမှ အစပြု၍ စနစ်တကျဖြစ်ဖို့ရာ စာလာပေလာ ကျမ်းဂန်လာအတိုင်း "တစပဉ္စကကမ္မဋ္ဌာန်း" နှလုံးသွင်းပုံကလေးပါ ထည့်သွင်းပြထား၏၊ ကလေးများအတွက် ပါဠိကို ဆိုနေလျှင် နားမလည်မည် စိုး၍ မြန်မာဘာသာ လင်္ကာချောချောဖြင့်. . . .

**"ငါ၏ကိုယ်မှာ, နံ့သာမွှေးကြိုင်, မြိနိုင်လှစွာ, ကောင်းရာမမြင်, ဆံပင်သာရှိ, အမွှေးရှိ၍, ရှိသည့်လက်သည်း, ခြေအသည်းနှင့်, သွားလည်းတစ်ထွေ, အရေတစ်မျိုး, ညှီနံ့ဆိုးသည်,... အသိုးအပုပ်ချည်းပါတကား"**

ဟု ထည့်သွင်း ဖော်ပြထား၏၊ ထို့ပြင် သင်္ကန်းကပ်, သင်္ကန်းတောင်း, သီလခံယူပုံတို့ကိုလည်း စနစ်တကျ ဖော်ပြထားသည်၊ လိင်ဆယ်ပါး ဒဏ်ဆယ်ပါးနှင့် ပစ္စဝေက္ခဏာကို ဆင်ခြင်ရပုံတို့ပါ အစုံအလင် ပါရှိ၏၊ ထို့ပြင် ခန္ဓကဝတ်လာ ကျင့်ဝတ် ၁၄ ပါးလည်း ပါရှိသည်။

ထို့ကြောင့် သာမဏေတို့ ကျင့်သုံးရသည့် ကျင့်ဝတ်တို့ကို ရေတွက်ကြည့်မည်ဆိုလျှင် ဆယ်ပါးသီလ, လိင်ဆယ်ပါး, ဒဏ်ဆယ်ပါး, သေခိယ ခုနစ်ဆယ့်ငါးပါး, စုဒ္ဒသခန္ဓကဝတ် တစ်ဆယ့်လေးပါးတို့ ဖြစ်၍ ပေါင်းကြည့်လျှင် ၁၁၉ ပါးပင် ရှိသည်ကို တွေ့ရ၏၊ ထို့ပြင် ငယ်ငယ်ကပင် အလေ့အကျင့်ကလေးများ ရနေဖို့ရာ ခုတင်ကျင့်ရပုံများ, ဘာဝနာ ပွားများပုံကလေးများကိုပါ ကလေးများ နားလည်နိုင်သည့် စကားလုံးကလေးများဖြင့် ဝါကျဖွဲ့ကုံး ရေးသားထားတော်မူသည်။

## ပါတိမောက်ဘာသာဋီကာ

**စာမျက်နှာ – ၄၇၃။**
**စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၂၀။**

ဝိနည်းပိဋကတ်တော်၌ ကျမ်းငါးစောင် ရှိသည်၊ ပါရာဇိက, ပါစိတ်, မဟာဝါ, စူဠဝါ, ပရိဝါတို့ ဖြစ်၏၊ ထိုတွင် ရှေ့ဆုံးဖြစ်သည့် ပါရာဇိကနှင့် ပါစိတ်ပါဠိတော် နှစ်စောင်ကိုမူ "ဥဘတောဝိဘင်္ဂ"ဟူ၍လည်း ခေါ်ဆိုသည်၊ အဓိပ္ပာယ်မှာ သိက္ခာပုဒ်အကျဉ်းချုပ် မာတိကာကို ဝေဖန်သောကြောင့် "ဝိဘင်္ဂ-ဝိဘင်း"ဟု ခေါ်ခြင်း ဖြစ်သည်၊ ယင်းမာတိကာသည် ဘိက္ခုမာတိကာ, ဘိက္ခုနီမာတိကာဟု နှစ်မျိုးရှိသောကြောင့် "ဒွေမာတိကာ"ဟုလည်း ခေါ်သည်၊ ယင်းဒွေမာတိကာကို ဖွင့်သောကြောင့် "ဥဘတောဝိဘင်္ဂ-ဥဘတော ဝိဘင်း"ဟု ခေါ်ဝေါ်သည်၊ ဥဘတော ဟူသည်မှာ "နှစ်ခု"ဟူ၍ အနက်အဓိပ္ပာယ် ရှိသည်။

မိန်းမအင်္ဂါနှင့် ယောကျ်ားအင်္ဂါ နှစ်မျိုး ရှိသူကို "ဥဘတောဗျည်း"ဟု ခေါ်သကဲ့သို့ ဖြစ်သည်၊ "ဥဘတောဗျည်းမှာ အင်္ဂါနှစ်မျိုး"ဟူ၍ အနက်အဓိပ္ပာယ်ရ၏။

ယင်း ဥဘတောဝိဘင်းဖြင့် ဖွင့်ပြရာ ဒွေမာတိကာသည် ရဟန်းတော်များ ကျင့်သုံးရမည့်သီလ ဖြစ်၏၊ ယင်းသီလသည် သီလဟူသမျှတွင် အကြီးမြတ်ဆုံးသီလဖြစ်သောကြောင့် "ပါတိမောက္ခသီလ"ဟူ၍ အမည်ပေးထားသည်၊ "ပါတိမောက္ခ"ဟူသည်မှာ "ပဋိမုခ"မှ ဆင်းသက်လာသည် ဖြစ်၍ "အကြီးအမှူး"ဟု အနက်ရှိသည်၊ ထို့ကြောင့် ပါတိမောက္ခသီလဟူသည် "အကြီးအမှူး, အကြီးမြတ်ဆုံးသီလ"ဟု အဓိပ္ပာယ်ရှိပေသည်။

ရဟန်းတို့၏ ပါတိမောက္ခသီလသည် သိက္ခာပုဒ်အရေအတွက်ပေါင်း ၂၂၇ ပါး ရှိသည်၊ ပါဠိဘာသာဖြင့် ဟောကြားတော်မူသည်၊ ယင်းပါတိမောက္ခသီလများကို ဆရာတော် အရှင်ဇနကာဘိဝံသက မြန်မာပြန် အဓိပ္ပာယ်များ, ခက်ဆစ် ရှင်းချက်, ဆောင်ပုဒ်လင်္ကာများဖြင့် ရှုချင်စဖွယ် ဖွင့်ပြသောကြောင့် ယင်းကျမ်းကို "ပါတိမောက္ခဘာသာဋီကာ=ပါတိမောက်ဘာသာဋီကာ"ဟူ၍ ဆရာတော်က အမည်ပေးထားသည်။

ယင်းပါတိမောက်ဘာသာဋီကာသည် တိုတိုကျဉ်းကျဉ်းဖြင့် လိုရင်းကို ထိထိမိမိ ဖွင့်ဆိုသောကြောင့် စာသင်သားများ အလွန်အသုံးပြုကြ၏၊ ကျေးဇူးလည်း များလှသည်၊ ထိုပါတိမောက်ကျမ်းစာသည် ဝိနည်းဘာသာဋီကာများအနက် ဦးစွာရေးသော ကျမ်းစာ ဖြစ်သည်။

## ကင်္ခါဘာသာဋီကာ ၂ တွဲ

**စာမျက်နှာ – ၄၆၁ (ပ–တွဲ)၊ ၄၁၅ (ဒု–တွဲ)။**

**စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၂၅ (ပ–တွဲ)၊ ၁၃၂၈ (ဒု–တွဲ)။**

မြတ်စွာဘုရား ဟောကြားတော်မူသည့် ဝိနည်းငါးကျမ်းတို့တွင် ပါရာဇိကနှင့် ပါစိတ် နှစ်ကျမ်းကို ဥဘတောဝိဘင်္ဂဟု ခေါ်ကြောင်း ပြဆိုခဲ့၏၊ ယင်းဥဘတောဝိဘင်္ဂကို မြန်မာတို့က "ဥဘတောဝိဘင်း"ဟု ပြန်ဆို ခေါ်ဝေါ်ကြသည်၊ "အကျယ်ဝေဖန်သည့်နှစ်ကျမ်း"ဟု အဓိပ္ပာယ်ရှိ၏။

ယင်းအကျယ်ဝေဖန်ပြရာ အကျဉ်းပါဠိကို "မာတိကာ"ဟု ခေါ်သည်၊ အကျဉ်းချုပ်ခေါင်းစဉ်ဟု ဆိုလိုသည်၊ ဥဘတောဝိဘင်းဖြင့် ဝေဖန်ရာ အကျဉ်းချုပ်မာတိကာသည်လည်း ပါရာဇိကနှင့် ပါစိတ်ဟူ၍ နှစ်မျိုးရှိသောကြောင့် "ဒွေမာတိကာ"ဟု အမည်ပညတ်သည်၊ အကျဉ်းချုပ်ခေါင်းစဉ် မာတိကာနှစ်ကျမ်းဟု အဓိပ္ပာယ်ရှိသည်၊ ဒွေမာတိကာပါဠိတော်ကို အကျယ်ဖွင့်ပြသည့် အဋ္ဌကထာကို အရှင်ဗုဒ္ဓဃောသက ပြုစုတော်မူ၏၊ "ကင်္ခါဝိတရဏီအဋ္ဌကထာ"ဟု အမည်ပေးတော်မူထားသည်၊ အချို့က "မာတိကာ အဋ္ဌကထာ"ဟု လွယ်လွယ်ခေါ်ကြသည်၊ ကင်္ခါဝိတရဏီ ဟူသည်မှာ "ယုံမှားသံသယကို ရှင်းပြသည့်ကျမ်း" ဟု အဓိပ္ပာယ် ရှိသည်၊ "ကင်္ခါဝိတရဏီအဋ္ဌကထာ" ဟူသောအမည်မှာ ရှည်လွန်းသောကြောင့် "ကင်္ခါ အဋ္ဌကထာ"ဟု တိုတို ခေါ်ဝေါ်တတ်ကြပေသည်၊ ဤကျမ်းကို မြန်မာဘာသာဖြင့် ဖွင့်ဆိုသောကြောင့် ဆရာတော်က "ကင်္ခါဘာသာဋီကာ"ဟု အမည်မှည့်လေသည်၊ အမှန်အားဖြင့် "ကင်္ခါဝိတရဏီအဋ္ဌကထာ ဘာသာဋီကာ"ဟု ခေါ်ရမည် ဖြစ်၏။

ဝိနည်းပါဠိတော် ငါးကျမ်းနှင့် ပါဠိဘာသာရေးအဖွင့် အဋ္ဌကထာ ဋီကာကျမ်းကြီးကိုလည်းကောင်း၊ ကင်္ခါအဋ္ဌကထာအဖွင့် ဋီကာဟောင်း၊ ဋီကာသစ် နှစ်စောင်ကိုလည်းကောင်း၊ အခြား မြန်မာဘာသာရေး ဝိနည်းအဆုံးအဖြတ် ကျမ်းကြီးများကိုလည်းကောင်း ကြည့်ရှုခွင့်ရသောကြောင့်၊ ထို့ပြင် ကျမ်းပြုဆရာတော် ကိုယ်တိုင်က ပါဠိတော် အဋ္ဌကထာ ဋီကာ ဂန္ထန္တရ နှံ့စပ်ပြီး ခေတ်အလိုက် သိမြင် ကျွမ်းကျင်စွာ ရေးသား တတ်သောကြောင့် ဤဘာသာဋီကာကျမ်းသည် အလွန်ကောင်းမြတ်သော ကျမ်းတစ်ဆူအဖြစ်သို့ ရောက်ရ လေသည်၊ ဤဝေဖန်စာရေးရန် ကြည့်ရှုသော ကျမ်းစာအုပ်မှာ တတိယအကြိမ်ရိုက် ဖြစ်သည်ကို ထောက်၍ အသုံးများ တွင်ကျယ်သော ကျမ်းဖြစ်ကြောင်း သိနိုင်သည်။

ပထမတွဲမှာ နိဿဂ္ဂိပါစိတ်အဖွင့်မှာ ပြီးသည်၊ ကင်္ခါဘာသာဋီကာ ဒုတိယတွဲကို သုဒ္ဓပါစိတ်မှ စ၍ ဒွေမာတိကာ အပြီးအထိ ဖွင့်ဆိုထားသည်၊ တတိယအကြိမ် ပြန်လည် ရိုက်နှိပ်ခြင်း ဖြစ်၏။

## ခုဒ္ဒသိက္ခာဘာသာဋီကာ

**စာမျက်နှာ – ၆၂၃။**

**စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၃၂။**

မြန်မာပြည်သာသနာဝင်၌ "ဝိနည်းငယ်လေးစောင်"ဟူသော ကျမ်းငယ်သည် အလွန်ထင်ရှားသည်၊ ယင်း ဝိနည်းငယ်လေးစောင်မှာ...

၁။ ဘိက္ခုပါတိမောက်၊
၂။ ဘိက္ခုနီပါတိမောက်၊
၃။ ခုဒ္ဒသိက္ခာ၊
၄။ မူလသိက္ခာ ဟူသော ကျမ်းလေးစောင်ပင် ဖြစ်သည်။

ဘိက္ခုပါတိမောက်နှင့် ဘိက္ခုနီပါတိမောက်တို့မှာ ပါဠိတော်ကျမ်းများ ဖြစ်၏၊ ခုဒ္ဒသိက္ခာနှင့် မူလသိက္ခာတို့မှာ အဋ္ဌကထာကျမ်းများ ဖြစ်ကြသည်၊ ယင်းနှစ်ကျမ်းတို့တွင် ခုဒ္ဒသိက္ခာသည် ဝိနည်းငါးကျမ်းကို အကျဉ်းချုံး၍ အဆီညှစ်ပြီးလျှင် ပါဠိကဗျာခေါ်သင့်သည့် ပါဠိဂါထာများဖြင့် ဖွဲ့သီရေးသား ပြုစုထားပေသည်၊ ဂါထာငါးရာခန့် ရှိ၏၊ ကျမ်းပြုပုဂ္ဂိုလ်မှာ အရှင်ဓမ္မသိရီ ဖြစ်သည်။

ရှေးအစဉ်အလာအားဖြင့်ပင် ဆရာတော်ကြီးများက ရှင်ငယ် ရဟန်းငယ်များအား ဝိနည်းအရာ၌ လိမ္မာကျွမ်းကျင်စေရန် ဝိနည်းငယ်လေးစောင်ကို သင်ကြားပေးတော်မူကြသည်၊ နှုတ်တက်အာဂုံလည်း ဆောင်ခိုင်းတော်မူကြသည်။

ဝိနည်းငယ်လေးစောင်တွင် ခုဒ္ဒသိက္ခာသည် ဂါထာအဖွဲ့ဖြင့် ရေးသားပြုစုထားရာ အရဆောင်ရန် အလွန်လွယ်ကူ ကောင်းမြတ်လှပေသည်၊ ဂါထာအရေအတွက်အားဖြင့် အတိအကျဆိုရင် ၄၇၆ ဂါထာ ရှိ၍ နိဒ္ဒေသခေါ် ဖွင့်ပြချက် အခန်းပေါင်း ၅၀ တိတိ ရှိပေသည်။

ယင်းသို့ ကျဉ်းကျဉ်းဖြင့် ဝိနည်းငါးကျမ်းလာ ကျင့်သုံးသိမှတ်ဖွယ်များနှင့် ပြည့်စုံသောကြောင့် စာသင်သားများ အကျိုးများ၍ သင်အံလေ့ကျက်သူ များလှပေသည်၊ "ဝိနည်းလက်သန်းအဋ္ဌကထာ"ဟူ၍လည်း ချစ်စနိုးခေါ်လေ့ရှိကြောင်း သိရသည်။

ဤခုဒ္ဒသိက္ခာဘာသာဋီကာကျမ်းတွင် ဆရာတော် အရှင်ဇနကာဘိဝံသက ဂါထာများကို ခေတ်မီစွာ အနက်ပေးခြင်း, ဝိနည်းအဋ္ဌကထာကြီးများနည်းကို မှီး၍ တိုတိုရှင်းရှင်း ဖွင့်ပြခြင်း, ဆိုင်ရာ ဝိနည်းပါဠိတော်ကြီးများကို ကျမ်းညွှန်ပြခြင်းတို့ဖြင့် ရေးသားဖွင့်ဆိုထားပါသည်၊ သာသနာ၌ အလွန် ကျေးဇူးပြုနိုင်သည့် မြန်မာဋီကာကျမ်းတစ်ဆူ ဖြစ်ပါသည်။

## ဘုရားဥပဒေတော်ကြီး

**စာမျက်နှာ - ၄၆၂ + ၆၈။**

**စတင်ရိုက်နှိပ်သောခုနှစ် - ၁၃၁၉။**

ဗုဒ္ဓမြတ်စွာသည် အကြောင်းဝတ္ထု တစ်စုံတစ်ရာ မပေါ်ခင် ဝိနည်းဥပဒေတော်ကို ကြိုတင်၍ ပညတ်တော်မမူ၊ အကြောင်းပေါ်လာမှသာ သံဃာအများက "ဥပဒေပညတ်တော်"ထားထိုက်သည်ဟု အယူရှိကြသော အခါမှသာ ထိုက်သင့်ရာ ဥပဒေကို ပညတ်တော်မူသည်၊ အချို့မှာ တားမြစ်ချုပ်ချယ်သော ဥပဒေမဟုတ်ပေ၊ အခွင့်အရေးပေးသော ဥပဒေ ဖြစ်၏။

တောင်မြို့ ဆရာတော်ကြီးသည် ဤဘုရားဥပဒေတော်ကြီးကို ရေးသားရာ၌ ရှင်လူအများ နားလည်လွယ်အောင် ရှေးဦးစွာ အကြောင်းပြဝတ္ထုကို ဖော်ပြ၍ အမှုသည်နှင့် အရေးယူရသော အမှုသွားကို ရှင်းပြသည်၊ ထိုနောက် ပညတ်သော "သိက္ခာပုဒ်"ကို ပါဠိဘာသာမူရင်း ပြပြီး မြန်မာပြန် အဓိပ္ပာယ်ပေးထား၏၊ နောက်ထပ် ပေါ်ပေါက်လာသော ဆက်နွယ်မှုခင်းများအတွက် "အနုပညတ်"ကိုလည်း ရှင်းပြသည်၊ အရေးကြီးသော သိက္ခာပုဒ်များအတွက် လင်္ကာဆောင်ပုဒ်လည်း ပေးထား၏။

ဤကျမ်းကို စီစဉ်ရာ၌ ဆရာတော်က အောက်ပါ ရည်ရွယ်ချက်များကို ဖော်ပြထားသည်။

၁။ ရဟန်းသာမဏေတို့အား ဝိနည်းဥပဒေကို လွယ်ကူစွာ နားလည်စေလိုခြင်း၊

၂။ သာသနာတော်ကို ပစ္စည်းလေးပါးဖြင့် ထောက်ပံ့နေကြသော ဒါယကာ ဒါယိကာတို့အား ဝိနည်းအမှန်ကို နားလည်စေ၍ နားလည်သည့်အတိုင်းလည်း သာသနာတော်ကို ပြုစုတတ်ကြစေလိုခြင်း၊

၃။ လူ့ဘက် ရှင့်ဘက် ဝိနည်းလေးစား ကျင့်သုံးလာကြခြင်းဖြင့် သာသနာ့ဝန်ထမ်း ရဟန်း သာမဏေများကို ပိုမို လေးစားလာလိမ့်မည်ဟု မျှော်လင့်ခြင်း၊

၄။ လူဝတ်ကြောင်တို့က လေးစားလာသည့်အားလျော်စွာ သာသနာဝင် အရှင်များကလည်း မေတ္တာ ကရုဏာ မုဒိတာ တိုးပွား၍ ဒါယကာ ဒါယိကာမတို့အား မေတ္တာ ကရုဏာ မုဒိတာ အခြေခံပါသော ဩဝါဒများပေးခြင်း, ကလေးသူငယ်တို့အား အပြစ်မရှိသော သိပ္ပ ဝိဇ္ဇာများ သင်ပြခြင်းဖြင့် လောကကောင်းကျိုးကို ကျင့်ခြင်း။

ထိုအကျင့်များကြောင့် တိုးတက်လာသော ပြည်ထောင်စု မြန်မာနိုင်ငံတော်သည် ကမ္ဘာပေါ်တွင် ထင်ရှားလာမည်ကို မျှော်မှန်းပါသည်ဟု ဆရာတော်က နိဂုံးချုပ် ဖော်ပြထားသည်၊ ဤမျှကြီးသော ကျမ်းကို ပထမအကြိမ် အုပ်ရေ ၁၀၀၀၀ ရိုက်နှိပ်သည်။

## ပါရာဇိကဏ်ဘာသာဋီကာ ၄ တွဲ

**စာမျက်နှာ – ၆၃၀ (ပ–တွဲ)၊ ၆၁၆ (ဒု–တွဲ)၊ ၅၉၅ (တ–တွဲ)၊ ၄၃၇ (စ–တွဲ)။**
**စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၂၂၊ ၁၃၂၃၊ ၁၃၂၃၊ ၁၃၂၄။**

ဝိနည်းဆိုင်ရာ ပါဠိတော်ကြီးများမှာ ပါရာဇိက, ပါစိတ်, မဟာဝဂ္ဂ, စူဠဝဂ္ဂ, ပရိဝါရ ဟူ၍ ငါးကျမ်းရှိသည်၊ ယင်းတို့၏ အဖွင့်အဋ္ဌကထာလည်း ငါးကျမ်းပင် ရှိ၏၊ အရှင်မဟာဗုဒ္ဓဃောသ ပြုစုတော်မူသည်၊ "သမန္တပါသာဒိကာ"ဟု အမည်ပေးထား၏၊ အာလုံး နှစ်ခြိုက်ဖွယ်ရာ ပြည့်ဝစုံလင် ကောင်းမွန်သဖြင့် "ဝန်းကျင်ပတ်ချာ သူတော်ကောင်း အားလုံးကို ကျေနပ်မှု အပြည့်အဝ ပေးမည့်ကျမ်း"ဟု အဓိပ္ပာယ်ရ၏။

မှန်ပါသည်၊ ဤအဋ္ဌကထာကြီးမှာ ဝိနည်းဆိုင်ရာလည်း ဖြစ်, သာသနာတော်၏ အသက်လည်း ဖြစ်၍ ခမ်းခမ်းနားနား သိုင်းသိုင်းဝိုင်းဝိုင်း ပြည့်ပြည့်စုံစုံ ဖွင့်ပြထားပါသည်၊ ဤအဋ္ဌကထာ၏ နိဒါန်းတွင် ဘုရား ပရိနိဗ္ဗာန် ပြုပြီးစ၌ ပထမသင်္ဂါယနာတင်ဖို့ လုံးပမ်းကြပုံ၊ မတင်မီကာလ စိတ်ဝင်စားဖွယ် အဖြစ်အပျက်ကလေးများ တွေ့ကြပုံ၊ ထို့နောက် ပထမသင်္ဂါယနာတင်ပုံတင်နည်း၊ ရဟန္တာမထေရ်မြတ်ကြီးတို့၏ လုံ့လဝီရိယ ကြီးမားတော်မူကြပုံ၊ ကိုယ်ရေးကိုယ်တာအတွက် ကိစ္စပြီးစီးကြပြီး ဖြစ်သော်လည်း နောင်လာ နောက်သား ဒါယကာ ဒါယိကာမများအတွက် အနာဂတ်သာသနာတော်ကြီးကို ဆောင်ရွက်တော်မူကြသော ရဟန္တာမထေရ်မြတ်ကြီးတို့အား ကြည်ညိုဖွယ်ရာ ဖူးတွေ့နိုင်ပါသည်။

ထို့နောက် နှစ်ပေါင်း ၁၀၀ အကြာတွင် ဒုတိယသင်္ဂါယနာ တင်ရခြင်း၊ တင်ရလောက်အောင် သာသနာတော်၌ အရှုပ်အထွေးများ ဖြစ်ပေါ်လာကြပုံ၊ ဒုတိယသင်္ဂါယနာတင်အပြီးတွင် မထေရ်ကြီးတို့သည် နောင်ဖြစ်ပေါ်လာမည့် ဘေးရန်ကိုပါ ဖြေရှင်း အေးငြိမ်းစေနိုင်မည့် ဗြဟ္မာ့ပြည်က "တိဿဗြဟ္မာကြီး"ထံ သွားရောက် တောင်းပန်ခဲ့ကြပုံတို့ပါ စုံစုံလင်လင် ဖွင့်ပြထားသည်ကို ကြည်ညိုဖွယ် တွေ့ကြရပါမည်။

ထို့နောက်တစ်ဖန် နှစ်ပေါင်း ၁၀၀ ကျော်အကြာတွင် တတိယသင်္ဂါယနာ တင်ကြရပြန်၏၊ သီရိဓမ္မာသောကမင်းကြီးလက်ထက်တွင် ဖြစ်သည်၊ စေတီကျောင်းကန် ရေတွင်းပေါင်း ရှစ်သောင်းလေးထောင် လှူခဲ့သော မင်းကြီး ဖြစ်၏၊ တတိယသင်္ဂါယနာ အပြီးတွင် ကိုးတိုင်းကိုးဌာန သာသနာပြုလွှတ်ပုံ၊ ထိုတွင် မြန်မာပြည် သုဝဏ္ဏဘူမိသည်လည်း ကိုးတိုင်းကိုးဌာန အပါအဝင် ဖြစ်ရပုံတို့ကို ကျေနပ်အားရဖွယ်တွေ ပြဆိုထားပါသည်။

ထို့ပြင် သီရိလင်္ကာ (သီဟိုဠ်)သို့ တာဝန်ကျသော အရှင်မဟာမဟိန္ဒနှင့် သံဃမိတ္တာထေရီ မောင်နှမတို့၏ သာသနာပြုလုပ်ငန်းကလည်း လျှမ်းလျှမ်းတောက် ဖြစ်ခဲ့သည်ကို ကြည်ညိုဖွယ်ရာ ဖော်ပြထားပါသည်၊ ထိုအခန်း၌ မဇ္ဈိမဒေသမှ သီရိလင်္ကာသို့ ဗောဓိပင်တောင်ဘက်ကိုင်းကို သစ္စာပြု၍ ပြတ်စေပြီး ကြွတော်မူခဲ့ပုံများမှာ ကြည်ညိုဖွယ် ဖြစ်ပါသည်။

ဤသို့လျှင် ဤ "ပါရာဇိကဏ္ဍအဋ္ဌကထာ ဗာဟိရနိဒါန်း"၌ စိတ်ဝင်စားဖွယ် မှတ်သားဖွယ်တို့ကို တတိယသင်္ဂါယနာတင်ခန်းအထိ ပြထားသည်ကို တွေ့ရပါမည်၊ သီရိလင်္ကာ (သီဟိုဠ်ကျွန်း)၌ စတုတ္ထသင်္ဂါယနာ ပေထက်အက္ခရာ တင်ပုံကိုကား ဖော်ပြထားခြင်း မရှိပေ၊ ယခုခေတ် ဆဋ္ဌမူစာအုပ်များ၌ကား သာသနာနှစ် ၂၄၁၅ ခုတွင် မြန်မာပြည် မန္တလေးနေပြည်တော်၌ မင်းတုန်းမင်းကြီးလက်ထက်မှာ ပဉ္စမသင်္ဂါယနာတင်ခဲ့ပုံ၊ တစ်ဖန် သာသနာနှစ် ၂၄၉၈ ခုတွင် မြန်မာပြည် ရန်ကုန်မြို့တော် ကမ္ဘာအေးကုန်းမြေ မဟာပါသာဏလိုဏ်ဂူကြီး၌ ဆဋ္ဌသင်္ဂါယနာတင်ခဲ့ပုံတို့ကိုပါ မှတ်တမ်းအဖြစ် ဖော်ပြထားသည်ကို တွေ့ရှိနိုင်ကြပါသည်။

ဤသို့အားဖြင့် ဝေဝေဆာဆာ နိဒါန်း၌ ဖော်ပြပြီးမှ ပါရာဇိကလေးပါး၏အဖွင့် အဋ္ဌကထာကို စနစ်တကျ ရေးသားဖွင့်ဆိုထားပါသည်၊ ရဟန်းတော်များ၏ အသက်သည် ပါရာဇိက လေးပါး ဖြစ်၏၊ ပါရာဇိကလေးပါးတွင် တစ်ပါးပါးမျှ မချွတ်ယွင်းသေးလျှင် ရဟန်းပင် ဖြစ်သည်၊ တစ်ပါးပါး ပေါက်ကျိုးလျှင်ကား ရဟန်း မဟုတ်တော့ပြီ၊ အရေးကြီးလှ၏။

ထို့ကြောင့် ဤလေးပါးကို ပါဠိအနေဖြင့် ပထမအတွဲ ဒုတိယတွဲ ၂ တွဲဖြင့် ကျယ်ကျယ်ပြန့်ပြန့် စုံစုံလင်လင် ဖွင့်ပြထား၏၊ ဆရာတော် အရှင်ဇနကာဘိဝံသက ယင်းကို အမိမြန်မာဘာသာဖြင့် (ပ၊ ဒု၊ တ၊ စ) ၄ တွဲဖြင့် ပြည့်ပြည့်စုံစုံ ဖွင့်ပြထားတော်မူသည်၊ စာချ လွယ်ကူရန် ပါဠိတော် နိဿယကိုပါ ဖြည့်သွင်းပေးထားသည်။

(က) ပထမတွဲမှာ စတုတ္ထစျာန်အဖွင့်အထိမှာ ပြီးသည်၊
(ခ) ဒုတိယတွဲမှာ ဝိဇ္ဇာသုံးပါးအဖွင့်မှ ဒုတိယပါရာဇိက ဥဒကဋ္ဌကထာ အထိမှာ ပြီးဆုံးသည်၊
(ဂ) တတိယတွဲမှာ နာဝဋ္ဌကထာအဖွင့်မှ သဉ္စရိတ္တသိက္ခာပုဒ်အဖွင့်အထိ ပါဝင်သည်၊
(ဃ) စတုတ္ထတွဲမှာ ကုဋိကာရသိက္ခာပုဒ်အဖွင့်မှ ဒုတိယအုပ် အပြီးအထိ ပါဝင်သည်၊

**မှတ်ချက်။** ။"ပါရာဇိကကဏ္ဍအဋ္ဌကထာ"ဆိုသော်လည်း ပါရာဇိက ၄ ပါးသာမက သံဃာဒိသေသ် ၁၃ ပါး၊ အနိယတ ၂ ပါး နိသဂ္ဂိသိက္ခာပုဒ် ၃၀ အထိ ပါဝင်စေလျက် ဖွင့်ပြထားသည်ကို တွေ့ရပါမည်။

## ပါစိတ်ဘာသာဋီကာ

**စာမျက်နှာ – ၅၁၄။**
**စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၂၆။**

ဤအဋ္ဌကထာကို ဆဋ္ဌသင်္ဂါယနာမူအားဖြင့် ပါစိတ်ပါဠိတော်နှင့် မဟာဝါပါဠိတော်အဖွင့် အဋ္ဌကထာနှစ်စောင်ကို တစ်အုပ်တည်း ပူးတွဲ၍ "ပါစိတျာဒိအဋ္ဌကထာ"ဟု အမည်တပ်ထားသည်၊ "ပါစိတ် အစရှိသည်တို့၏ အဖွင့်"ဟု အဓိပ္ပာယ်ရ၏၊ ဤသည်ကို ဆရာတော် အရှင်ဇနကာဘိဝံသက တစ်ခုစီခွဲ၍ "ပါစိတ်ဘာသာဋီကာ" "မဟာဝါဘာသာဋီကာ"ဟု သီးသန့်စီ ပြု၍ ဖွင့်ပြထားသည်။

ဤပါစိတ်ဘာသာဋီကာတွင် ရဟန်းတော်တို့ ကျင့်သုံးရသည့် ၉၂ ပါးသော ပါစိတ်အာပတ်များ အကြောင်းအရာ၊ ဘိက္ခုနီတို့ကျင့်သုံးရသည့် ပါရာဇိက၊ သံဃာဒိသေသ်၊ နိသဂ္ဂိ၊ ပါစိတ်တို့အကြောင်း အရာများကို စိတ်ဝင်စားဖွယ် အကျယ်ဖွင့်ပြထားသည်။

ဥပမာအားဖြင့် "ရဟန်းဆိုတာ လိမ်ညာ မပြောကောင်း, ပြောလျှင် ပါစိတ်အာပတ်သင့်၏၊ ရဟန်းဆိုတာ တစ်ဦးနှင့်တစ်ဦး စိတ်ဝမ်းကွဲပြားအောင် ကုန်းမတိုက်ရ, တိုက်လျှင် ပါစိတ်အာပတ် သင့်၏၊ ရဟန်းဆိုတာ တစ်ဖက်သား အနေခက်၍ အူတက်မတတ် ရယ်ချင်အောင် ကလိမထိုးရ၊ ထိုးလျှင် ပါစိတ်အာပတ်သင့်၏" စသည်မျိုး ဖြစ်သည်၊ ရဟန်းတို့ ကျင့်သုံးစောင့်စည်းရပုံကို ဗဟုသုတအဖြစ် လူပုဂ္ဂိုလ်တို့လည်း လေ့လာသင့်သည်။

ထို့ပြင်လည်း "ရဟန်းဆိုတာ သောက်ရေနှင့် တံပူကလွဲ၍ ကျန်အားလုံးကို သူများ မပေးဘဲနဲ့ မသုံးစွဲရ, မစားသောက်ရ, အကပ်ခံပြီးမှသာ သုံးစွဲစားသောက်နိုင်၏၊ "ကပ်"ဆိုသည်မှာ မိမိအား သူတစ်ပါးက ပေးခြင်း ဖြစ်သည်၊ သူတစ်ပါး၏ ပေးခြင်းကို ခံယူပြီးမှသာ စားသုံးခွင့်ရှိသည်ဟု ဆိုလို၏၊ သောက်ရေနှင့် တံပူကိုကား အပေးခံနေဖို့ မလို၊ ကိုယ့်ဘာသာကိုယ် ယူငင် သုံးစွဲကောင်း၏"စသော အကြောင်းအရာများလည်း ပါဝင်သည်၊ လေ့လာဖို့ ကောင်း၏။

## မဟာဝါဘာသာဋီကာ

**စာမျက်နှာ – ၆၉၁။**

**စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၂၇။**

ဤအဋ္ဌကထာကို ဆဋ္ဌမူအဋ္ဌကထာများတွင် "မဟာဝါအဋ္ဌကထာ"ဟူ၍ သီးသန့်တွေ့ရမည် မဟုတ်ချေ၊ "ပါစိတျာဒိအဋ္ဌကထာ"ဟူ၍ အမည်တပ်ကာ ပါစိတ်အဖွင့်နှင့် ပူးတွဲထားသည်၊ ဤသည်ကို မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသက သီးသန့်ခွဲ၍ "မဟာဝါဘာသာဋီကာ"ဟု အမည်သစ်ပေးကာ ဖွင့်ဆိုထားသည်၊ မဟာဝါသည် သုတ်မဟာဝါ, ဝိနည်းမဟာဝါဟူ၍ ၂ မျိုးရှိ၏၊ ဤ၌ "ဝိနည်းမဟာဝါ" ဖြစ်သည်၊ သိဖွယ်တွေ များစွာ ပါ၏၊ ထို့ကြောင့်လည်း "မဟာဝဂ္ဂ-မဟာဝါ"ဟု အမည်တွင်လေသည်။

ဤမဟာဝါဘာသာဋီကာ အစပိုင်း၌ "မြတ်စွာဘုရား စတင်ပွင့်ထွန်းလာပုံ, မပွင့်ထွန်းမီ ၆ နှစ်ပတ်လုံး ဒုက္ကရစရိယာ ကျင့်တော်မူသည့် ဥရုဝေလတောအုပ်ကြီး, ထိုတောအုပ်ကြီး၏ သာယာပုံ, မနီးမဝေးမှ ဖြတ်သန်းစီးဆင်းနေသော နေရဥ္စရာမြစ်, ထိုမြစ်၏ အေးမြကြည်လင် ပြာလဲ့လဲ့ သန့်စင်သော ရေပြင်နှင့် ဖွေးလွလွ မိုမောက်နေသည့် သဲသောင်ပြင်ကြီးတို့"အကြောင်းကို ကြည်နူးဆွတ်မောဖွယ် ဖွင့်ပြထားသည်ကို တွေ့ရမည် ဖြစ်၏၊ ထို့ပြင် သဗ္ဗညုတဉာဏ်တော်ကြီးရ၍ ဘုရားအဖြစ်သို့ ရောက်ရသည်မှာ ကဆုန်လပြည့်နေ့ နံနက်ပိုင်း မဟုတ်၊ နေ့လယ်ပိုင်း မဟုတ်၊ ညနေပိုင်း မဟုတ်၊ ညဦးပိုင်း မဟုတ်၊ ညဥ့်လယ်ပိုင်း မဟုတ်၊ ညဥ့်နောက်ပိုင်း ရောက်စလည်း မဟုတ်သေး၊ စင်စစ်ကား ညဥ့်နောက်ပိုင်း ကုန်ခါနီး (နောက်တစ်နေ့အတွက် အရုဏ်တက်တော့မည့်ဆဲဆဲ) ကဆုန်လပြည့်ရက် ကုန်ခါနီး နောက်ဆုံးအချိန်ကလေးမှာ ကပ်၍ (ဤကဆုန်လပြည့်နေ့ဘက်တွင်) "ဘွား"ခနဲ သဗ္ဗညုတဉာဏ်တော်ကြီးပေါ်လာကာ "ဗုဒ္ဓ"အဖြစ်သို့ ရောက်ပုံကိုလည်း ဖွင့်ပြထားသည်၊ မှတ်သားဖွယ် ကောင်းလှ၏။

ထို့နောက် ဘုရားရှင်ကိုယ်တော်မြတ်သည် ဘုရားဖြစ်၍ ၂ လမြောက်သော ဝါဆိုလပြည့်နေ့တွင် မိဂဒါဝုန်တောသို့ ကြွကာ "ဓမ္မစကြာတရားဦး"ဟောတော်မူပုံ၊ ဝါတွင်းကာလတွင် အရှင်ယသ သတို့သား, ယင်း၏ သူငယ်ချင်းများ စသူတို့အား တရားပြ၍ ရဟန်းပြုပေးခဲ့ရာ ရဟန်းအပါး ၆၀ ရလာခဲ့ပုံ, ဝါကျွတ်သောအခါ ယင်း ခြောက်ကျိပ်သော ရဟန်းတို့ကို "သာသနာပြုတပ်သား သူရဲကောင်းများ"အဖြစ် အနယ်နယ် အရပ်ရပ်သို့ ဖြန့်၍ လွှတ်ပုံ စသည်တို့ကို ဖွင့်ဆိုထားပါသည်၊ အားလုံး စိတ်ဝင်စားဖွယ်ချည်း ဖြစ်ပါသည်၊ ဤ မဟာဝါဘာသာဋီကာကား ရဟန်းတို့နှင့် ပတ်သက်၍ ကျင့်ဝတ်အဖြာဖြာ စုံလှပါသည်၊ ဝတ္ထု ဇာတ်ကြောင်း စိတ်ဝင်စားဖွယ်ကောင်းသည့် အကြောင်းအရာတို့လည်း အပြည့် ပါဝင်ပါသည်၊ ကထိန်အလှူနှင့် စပ်၍ သိမှတ်ဖွယ်များလည်း ပါဝင်သည်။

ဤအကြောင်းအရာတို့ကို ဆရာတော် အရှင်ဇနကာဘိဝံသက သာသနာ့ဝန်ထမ်း ရှင်ရဟန်းတို့ ဝိနည်းကျင့်ဝတ်၌ ကျွမ်းကျင်လိမ္မာဖို့ရာ အမိမြန်မာဘာသာဖြင့် စနစ်တကျ ဖွင့်ပြထားပါသည်။

## စူဠဝဂ္ဂဘာသာဋီကာ

### စာမျက်နှာ - ၆၁၉။

### စတင်ရိုက်နှိပ်သောခုနှစ် - ၁၃၃၄။

ဆဋ္ဌသင်္ဂါယနာမူကျမ်းစာအုပ်တွင် စူဠဝါအဋ္ဌကထာနှင့် ပရိဝါအဋ္ဌကထာကို ပေါင်း၍ တစ်အုပ်တည်း တွဲထားသည်၊ အမည်ကိုမူ "စူဠဝဂ္ဂါဒိအဋ္ဌကထာ"ဟု ပေး၏၊ "စူဠဝါအစရှိသည်တို့၏အဖွင့်"ဟု အဓိပ္ပာယ် ရသည်၊ ဤသည်ကို အမရပူရ မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသက သီးသန့်တစ်အုပ် ခွဲထုတ်၍ "စူဠဝဂ္ဂဘာသာဋီကာ"ဟု အမည်ပေးကာ ဖွင့်ဆိုထားပါသည်။ [စူဠ-ငယ်သော၊ တိုသော၊ ဝဂ္ဂ-အပေါင်း အစု၊ မဟာဝါခန္ဓကဲ၌ လာသော အကြောင်းအရာများလောက် မရှည်သော၊ တိုသော အကြောင်းအရာ များကို ဖော်ပြရာ ပါဠိတော်၊ အဋ္ဌကထာ။]

ဤဘာသာဋီကာဖြင့် ဖွင့်ပြရာ စူဠဝါပါဠိတော်၌လည်း စိတ်ဝင်စားဖွယ်တွေ များစွာ ပါရှိ၏၊ အစ ပိုင်း၌ တဇ္ဇနီယကံ စသည်ဖြင့် ၇ မျိုးသော ကံတို့ ပါရှိပြီးလျှင် ရဟန်းတို့ ပရိဝါသ် မာနတ် ဆောက်တည် ရပုံတွေ, ကျင့်သုံးရပုံတွေ အစုံ ဖော်ပြထားသည်။

ထို့ပြင် "ရဟန်းဆိုတာ ဆံပင်ရှည်ရှည်ကြီး မထားရ၊ လက် ၂ သစ်ထက် ရှည်အောင်လည်းကောင်း, သို့မဟုတ် ၂ လထက် ကျော်လွန်၍လည်းကောင်း မထားရ၊ ထားလျှင် ဒုက္ကဋ်သင့်သည်ဟူ၍လည်းကောင်း, "ရဟန်းဆိုတာ ပွဲမကြည့်ရ, ကြည့်လျှင် ဒုက္ကဋ်ဟူ၍လည်းကောင်း, ရဟန်းဆိုတာအသံရှည်ရှည် ဆွဲ၍ (မင်းသား သီချင်းဆိုသလို) တရား မဟောရ၊ ဟောလျှင် ဒုက္ကဋ်"ဟူ၍လည်းကောင်း ဗဟုသုတ သိမှတ် ဖွယ်တွေ ပါရှိပါသည်၊ ထိုမှတစ်ပါး ဘုရားရှင်၏ ဆွေတော်မျိုးတော်များဖြစ်သော မင်းသား ၆ ယောက်တို့ သာသနာ့ဘောင်သို့ ဝင်လာကြပုံ၊ အရှင်ဘဒ္ဒိယ, အရှင်အနုရုဒ္ဓါ, ညီတော် အာနန္ဒာ, အရှင်ဘဂု, အရှင်ကိမိလနှင့် နာမည်ကျော် အရှင်ဒေဝဒတ်တို့ ဖြစ်ကြ၏။

ထို့ပြင် သာသနာတော်တွင် ဝိနည်းအရာ၌ နေလို လလို လျှမ်းလျှမ်းတောက် ဖြစ်မည့် ယင်းမင်းသား ၆ ယောက်တို့၏ အလုပ်အကျွေးဆတ္တာသည် ဖြစ်ခဲ့သည့် "အရှင်ဥပါလိ"တို့ ဖြစ်ကြသည်၊ ထက်မြက်သော အရှင်မြတ်တို့၏ ဂုဏ်ပုဒ်တို့ကို ကြည်ညိုရသလို နောက်ပိုင်းတွင် အရှင်ဒေဝဒတ်၏ လွဲမှားသော အမူအရာ လုပ်ရပ်တို့ကိုလည်း စိတ်လှုပ်ရှားစွာ တွေ့ရှိနိုင်ကြပါသည်။

ထိုမှတစ်ဖန် ဘုရားသာသနာတော်တွင် အမျိုးသမီးများလည်း တစ်ခန်း တစ်ကဏ္ဍ ပါဝင်လာနိုင် အောင်, ဘဝ၏ ပူလောင်ငြီးငွေ့မှုကြောင့် အေးရိပ်သာသော သာသနာ့ဥယျာဉ်တွင်းသို့ ခိုဝင်လာနိုင် အောင် "ဘိက္ခုနီသာသနာ"တည်ထောင်ဖို့အတွက် အချက်ကျကျ ဘုရားရှင်အား လျှောက်ထားသော အရှင်အာနန္ဒာ၏ စကားလုံးများကိုလည်း အမျိုးသမီးများအဖို့ အားရစရာ ကြားယောင်နေကြရပါမည်။

ထို့ပြင်လည်း အရှင်ပိဏ္ဍောလဘာရဒွါဇသည် ကောင်းကင်ဝါးလုံးတိုင်၌ ချိတ်ဆွဲထားသော ရာဇဂြိုဟ် သူဌေး၏ သစ်သားသပိတ်ကို တန်ခိုးပြ၍ ယူမိ၏၊ ဘုရားရှင် သိသောအခါ "အသပြာတစ်ပဲကို ရလိုမှုဖြင့် မိမိ၏ အင်္ဂါဇာတ်ကို လှန်ပြသော မိန်းမကဲ့သို့ အသင်သည် သစ်သားသပိတ်ကလေး ရလိုမှုဖြင့် လူတို့အား ထူးမြတ်သည့် တန်ခိုးဣဒ္ဓိပါဒ်ကို ပြဘိ၏"ဟု ကဲ့ရဲ့ ရှုတ်ချတော်မူသည်၊ ဤသို့သော အကြောင်းအရာများ ကိုလည်း စိတ်ဝင်စားဖွယ် တွေ့ရှိနိုင်ပါသည်။

ထို့ပြင်လည်း "ဘုရားဟောတရားတော်များကို ယခုခေတ်တွင် စာပေအားဖြင့် အဆင့်အတန်းအမြင့်ဆုံးဖြစ်သော (ဆန်းဆကရစ်)ဘာသာတစ်မျိုးဖြင့်သာ တင်ထားပါရစေဘုရား၊ အခြားဘာသာများဖြင့် တင်ထားမှုကို ခွင့်မပြုပါနဲ့ဘုရား"ဟူ၍ လာပြီးလျှောက်ထားသော ညီနောင် ရဟန်း ၂ ပါးကို မြတ်စွာဘုရားက လက်ခံတော်မမူ, ပယ်ချတော်မူသည်၊ လက်မခံရုံသာမက "ငါဘုရား၏တရားတော်များကို မည်သည့်ဘာသာဖြင့်မဆို ကူးပြောင်းပြန်ဆို သင်ယူနိုင်၏၊ ကျင့်ကြံနိုင်၏၊ သင်ယူကျင့်ကြံအားထုတ်နိုင်မှုသာ ပဓာန"ဟူ၍ မိန့်မြွက်တော်မူဖူး၏၊ ဤအကြောင်းအရာကလေးများကိုလည်း တွေ့ရှိရမည်ဖြစ်သည်။

ထို့ပြင် ပထမသင်္ဂါယနာတင်ပွဲကြီး နီးကပ်လာစဉ်တွင် အပူတပြင်း အရေးတကြီး အားထုတ်ရသော အရှင်အာနန္ဒာ၏ ထူးဆန်းစွာ ရဟန္တာဖြစ်ပုံ, အရှင်ဆန္နအား ဗြဟ္မဒဏ်ပေးဖို့ မိန့်ကြားခဲ့ခြင်း, အရှင်အာနန္ဒာအပေါ် မထေရ်ကြီးများက စွဲချက်ကြီး ငါးမျိုးတင်ခြင်း စသည်တို့ကိုလည်း အံ့ဩ ထူးဆန်းသည်းထိတ် ရင်ဖိုဖွယ်ရာ တွေ့ရှိနိုင်ကြပါသည်။

ဤစူဠဝဂ္ဂဘာသာဋီကာမှာ ဤသို့သော အကြောင်းအရာတို့ကို ပီပီပြင်ပြင် စနစ်တကျ ဖွင့်ပြရသော ဘာသာဋီကာ ဖြစ်ပါသည်၊ ရဟန်းတို့သာမက ဗဟုသုတ လိုလားသူတို့လည်း လေ့လာ ဖတ်ရှုသင့်တော့သည်။

## ပရိဝါဘာသာဋီကာ

### စာမျက်နှာ – ၆၇၉။
### စတင်ရိုက်နှိပ်သောခုနှစ် –. ၁၃၃၄။

ဤအဋ္ဌကထာကို ဆဋ္ဌမူအဋ္ဌကထာ၌ သီးသန့်တွေ့ရမည် မဟုတ်ချေ၊ စူဠဝါအဋ္ဌကထာနှင့် တွဲ၍ "စူဠဝဂ္ဂါဒိအဋ္ဌကထာ"ဟူ၍သာ တွေ့ရှိနိုင်ပေမည်၊ ဤသည်ကို ဆရာတော် အရှင်ဇနကာဘိဝံသက သီးသန့်ခွဲ၍ "ပရိဝါဘာသာဋီကာ"ဟု အမည်ပေးကာ ဖော်ပြထားပါသည်၊ [ပရိဝါရ-အခြံအရံ၊ ဝိနည်းနှင့်စပ်၍ အကြွင်းအကျန် မရှိအောင် ရှေ့ပါဠိတော်တို့၌ မပါခဲ့သေးသော အရာတို့ကို သိမ်းကျုံး ပါဝင်စေ၍ အခြံအရံအဖြစ် ဟောပြသော ပါဠိတော်၊ ယင်း ပါဠိတော်ကို ဖွင့်ပြသော အဋ္ဌကထာ။]

ဤပရိဝါဘာသာဋီကာ၌လည်း ဝိနည်းဆိုင်ရာ အရေးကြီးသော အချက်အလက်များ, စိတ်ဝင်စားဖွယ်ကောင်းသော အရာများ အပြည့် ပါရှိသည်၊ ဥပမာ-ဝိနည်းဓိုရ်ဆရာတော်များ ကျင့်သုံးရမည့် စိတ်နေစိတ်ထားများ၊ စောဒက, စုဒိတကဆရာတော်တို့ တရားသဘင်၌ အစစ်အဆေးခံရန် ဝင်ရာတွင် ကျင့်သုံးရမည့် ကိုယ်အမူအရာ, နှုတ်အမူအရာများ ပါဝင်သဖြင့် ယခုခေတ် ဝိနည်းဓိုရ်ဆရာတော်များ အဓိကအားကိုးကြရ၏၊ ထို့ပြင် ကမ္မဝါစာဖတ်ရာ၌ အောင်အောင်မြင်မြင် ဖတ်ကြားတတ်ဖို့ ဗျဉ္ဇနဗုဒ္ဓိဆယ်ပါး ခေါ်သည့် "စာဖတ်နည်းဆယ်ပါး"အကြောင်းအရာများ ပါရှိ၏။

ထို့ပြင် အရှင်သာရိပုတ္တရာကိုယ်တော်မြတ် ဟိမဝန္တာတောင်နံပါး၌ တံမြက်မလှည်းဘဲ နိရောဓသမာပတ် ဝင်စားမိ၍ ဘုရားကိုယ်တော်မြတ်ကြွလာပြီး ခြေတော်ရာ ချပုံ, တံမြက်လှည်းခြင်းကြောင့် ရအပ်သော အကျိုးများ၊ တံမြက်လှည်းခြင်း အမှိုက်ကျုံးခဲ့ခြင်းကြောင့် ရုပ်ရေ ချောမော လှပကြသော အမတ်၏ သားနှင့် အဘယမထေရ်တို့ အကြောင်းတို့ကိုလည်း အားကျဖွယ်ရာ တွေ့ရှိရပါသည်။

တံမြက်လှည်းထားသော စေတီရင်ပြင်၌ မာရ်နတ်က ဝင်၍ အမျိုးမျိုးနှောင့်ယှက်နေသောကြောင့် ဒဏ်ပေးသောအားဖြင့် ဘုရားပုံ ဖန်ဆင်းခိုင်းရာ မာရ်နတ်က ဖန်ဆင်းပြရ၏၊ ထိုဖန်ဆင်းအပ်သော ဘုရားပုံကို ကြည့်၍ ဗုဒ္ဓါနုဿတိပွားကာ "ရဟန္တာ"ဖြစ်သွားရသော မထေရ်ကြီးအကြောင်းကိုလည်း တွေ့ရှိနိုင်ပါသည်။

ဤသို့ ဤသို့ စသည်ဖြင့် စိတ်ဝင်စားဖွယ် ကောင်းသော အချက်အလက်တို့ကို ဖွင့်ပြရသော အဋ္ဌကထာ ဖြစ်ပါသည်၊ ဤပရိဝါရဘာသာဋီကာကို လေ့လာလျှင် ယင်းအချက်တို့ကို ကြည်ညိုဖွယ်ရာ အားကျစရာ တွေ့ရပါမည်။

## သင်္ဂြိုဟ်ပါဠိ (အရှင်ဇနကာဘိဝံသမူ)

### စာမျက်နှာ – ၁၁၈။
### စတင်ရိုက်သောခုနှစ် – ၁၃၂၁။

ဤကျမ်းကလေး၏ အမည်အပြည့်အစုံမှာ "အဘိဓမ္မတ္ထသင်္ဂဟ ဟူ၍ ဖြစ်ပါ၏၊ "အဘိဓမ္မာ၏ အနက်သဘောတို့ကို အကျဉ်းချုံး၍ သိမ်းယူပြသောကျမ်း"ဟု အဓိပ္ပာယ်ရပါသည်၊ အရပ်ထဲတွင် ရှည်သောနာမည်များကို ဖျားဆွတ်၍ ခေါ်တတ်သကဲ့သို့ ဤ၌လည်း အဖျားဆွတ်၍ ယူရာ "သင်္ဂဟ"ဟူ၍ ခေါ်ပါသည်။

"သင်္ဂဟ"ဟူသော နာမည်ကို သက္ကတအသံဖြင့် "သင်္ဂြဟ"ဟု ခေါ်ရ၏၊ ယင်းကို "သင်္ဂြိုဟ်"ဟု မြန်မာမှု ပြုထားကြပါသည်၊ ရာဇဂဟကို သက္ကတအသံဖြင့် "ရာဇဂြေဟ"ဟု မြန်မာမှုပြု၍ "ရာဇဂြိုဟ်"ဟု ခေါ်ကြသကဲ့သို့ ဖြစ်ပါသတည်း။

ဤကျမ်းကလေးသည် အဘိဓမ္မာ ၇ ကျမ်းလာ ပရမတ္ထသဘော အဓိပ္ပာယ်တို့ကို မလွတ်အောင် သိမ်းယူ အကျဉ်းချုံး၍ စနစ်တကျ လှလှပပကလေး ရေးသား တင်ပြထားသော အဋ္ဌကထာကလေး တစ်ဆူ ဖြစ်ပါ၏။

အဘိဓမ္မာကျမ်းကြီးတို့နှင့် စာလျှင် လက်သန်းကလေးသဖွယ် သေးငယ်လှသောကြောင့် "လက်သန်း အဋ္ဌကထာ"ဟူ၍လည်း ချစ်စနိုးခေါ်ကြပါသည်၊ သီရိလင်္ကာ (သီဟိုဠ်ကျွန်း)က အရှင်အနုရုဒ္ဓါမထေရ်မြတ် ရေးသားစီရင်အပ်ပါ၏၊ ဤကျမ်းကလေးမှာ သေးငယ်လှသော်လည်း အဘိဓမ္မာ ၇ ကျမ်းလုံးကို ငုံမိခြုံမိ အောင် ယူနိုင်သည့်အပြင် ပီပြင်လှပသော အရေးအသားတို့ဖြင့် စီကုံးထားသောကြောင့် အားလုံးသော အဘိဓမ္မာသင်ပုဂ္ဂိုလ်တို့၏ ခံတွင်းဖြင့် မြတ်နိုးစွာ ငုံထားခြင်းကို ခံယူရသော ကျမ်းကလေးတစ်ဆူ ဖြစ်လေသည်။

ဤကျမ်းကလေးကို ရှေးက ရိုက်နှိပ်ကြသောပုဂ္ဂိုလ်တို့၏ အထားအသိုကို ပြုပြင်၍ ဆရာတော် အရှင်ဇနကာဘိဝံသက စနစ်တကျ ခေတ်အမြင်ဖြင့် ပြုပြင် စီစဉ်ထားပါသည်။

တစ်ချောင်းပိုဒ်, နှစ်ချောင်းပိုဒ်, ဒက်ချ်, ကော်မာ, ဂါထာတစ်သန့်, စုဏ္ဏိယတစ်ကန့်ဖြင့် ခန့်ခန့်ကလေး ပိုင်းခြား၍ ဆိုင်ရာ ဆောင်ပုဒ်ကလေးများဖြင့်ပါ မွမ်းမံ စီစဉ် ရိုက်နှိပ်လိုက်သည်၊ ဤသည်ကို (အရှင် ဇနကာဘိဝံသမူ)ဟူ၍ ခေါ်ကြသည်၊ အသစ်ပြုပြင်၍ ရေးသားသည်ကား မဟုတ်ပါ၊ ယခုအခါ စာသင်သား ငယ်များ နှစ်သက်ကြပါသည်။

## အခြေပြုသင်္ဂြိုဟ်

### စာမျက်နှာ – ၆၅၇။
### စတင်ရိုက်နှိပ်သောခုနှစ် – ၁၂၉၅။

ဤကျမ်းစာကို ဆရာတော်သည် ၁၂၉၅ ခု သက်တော် ၃၄ နှစ်အရွယ်က ရေးသည်၊ အခြေခံ သင်ယူလိုသူ စာသင်သားများအတွက် ခေတ်မီနည်းစနစ်ဖြင့် ရေးထားသော ကျမ်းစာတစ်စောင်ဖြစ်သည်၊ အရပ်ရပ် ထုတ်ဝေကြသော ဘာသာရေးကျမ်းစာအုပ်များတွင် အဘိဓမ္မာသင်္ဂြိုဟ်နှင့်ပတ်သက်သော စာအုပ် အကြီး အလတ် အငယ်များ ပုံစံ အမျိုးမျိုးနှင့်ထွက်ပြီး ရှိနေသည်မှာ အခြားကျမ်းစာများထက် ပိုမိုသည်။

ဆရာတော်သည် ဤကျမ်းကို အခြေခံ မရသေးသူတို့အတွက် ရည်မှန်း၍ ပို့ချသော "ဆရာလည်း မပင်ပန်း, သင်ယူသော တပည့်များလည်း ရွှင်လန်းအောင် ယဉ်ဆန်းသော စည်းစနစ်တို့ဖြင့် နည်းအသစ်ထွင်၍ စီစဉ်ဖွင့်ပြ"ထားပေသည်။

ရေးသားပုံအစီအစဉ်မှာ ပါဠိ, နိဿယ, အဓိပ္ပာယ်ဟု ၃ ခန်း ခွဲခြားထားသည်၊ ပါဠိကို ဆိုလိုရင်း အဓိပ္ပာယ်ပေါ်လွင်အောင် စီစဉ်ပြီး ရွတ်ဖတ်ရာ၌ မှန်ကန်အောင် ရပ်ဆိုင်းဖို့ အဖြတ်အပိုင်းများဖြင့် သေသပ်စွာ စာအုပ်သီးခြားပြုထားသည်။

နိဿယကို အလွန်လွယ်ကူအောင်, ကျက်မှတ်လွယ်အောင် တိုတိုကျဉ်းကျဉ်း လိုရင်းကိုသာ စီစဉ်ပေးထားသည်၊ အဓိပ္ပာယ်ကို သရုပ်ခွဲ, လိုရင်းအဓိပ္ပာယ်, လေ့ကျင့်ဖွယ်မေးခွန်းများဟု ၃ ခန်းပိုင်းခြားပြီး ပြထားသည့်ပြင် လိုအပ်သောအပိုင်း၌ ကျက်မှတ်လွယ်ကူသော လင်္ကာဆောင်ပုဒ်များ ပေးထားသည်။

အခြေမရသေးသူတို့ လေ့လာရာ၌ လေ့ကျင့်ခန်းမေးခွန်းများကို ကြိုးစားကြံစည် ဖြေဆိုခြင်းဖြင့် ပိုမိုရှင်းလင်းစွာ နားလည်ပြီး သဘောပေါက် ခွဲပြသွားပါလိမ့်မည်ဟု ဆရာတော်က သတိပေးဖော်ပြထားသည်၊ ဤသတိပေး ဖော်ပြခြင်းကို သချာပါရဂူတစ်ဦးကိုယ်တိုင် ထိုအခြေပြုသင်္ဂြိုဟ်စာအုပ်ကို ဖတ်ရှုလေ့ကျင့်ခြင်းဖြင့် သင်္ဂြိုဟ်ကို တတ်သွားကြောင်း သိရပါသည်။

၎င်းကိုယ်တိုင်က ဝန်ခံသည်မှာ "ကျွန်တော် တော်၍ မဟုတ်, သင်ခန်းစာ စာအုပ်က စနစ်တကျ လွယ်ကူစွာ လေ့လာနိုင်မှုကြောင့်သာ ဖြစ်ကြောင်း" ဝန်ခံပါသည်။

## သင်္ဂြိုဟ်ဘာသာဋီကာ

**စာမျက်နှာ – ၇၂၈။**
**စတင်ရိုက်နှိပ်သောခုနှစ် – ၁၂၉၉။**

အရှင်အနုရုဒ္ဓါ ပြုစုတော်မူသည့် သင်္ဂြိုဟ်ကျမ်းကို မြန်မာဘာသာဖြင့် ဖွင့်ဆိုသော ဋီကာကျမ်းဖြစ်သည်၊ သင်္ဂြိုဟ်ကျမ်းဟူသည်မှာ အဘိဓမ္မတ္ထသင်္ဂဟဟူသော အမည်အပြည့်အစုံ၏ အဖျားဆုံးစကားလုံး "သင်္ဂဟ"ကို မြန်မာမှုဖြင့် "သင်္ဂြိုဟ်"ဟု ပြန်ဆိုခြင်း ဖြစ်သည်၊ ရှင်းပြပါမည်၊ "သင်္ဂဟ"ဟူသော ပါဠိဝေါဟာရကို သက္ကတဖြင့် "သင်္ဂြဟ"ဟု အသံထွက်သည်၊ ပါဠိစာပေ မြန်မာပြည်သို့ မရောက်မီက သက္ကတက ဦးစွာ ရောက်နှင့်သည်၊ ထို့ကြောင့် "သင်္ဂဟ"ပါဠိကို "သင်္ဂြဟ"ဟု မြန်မာတို့ သက္ကတနွယ်နွယ် ရွတ်ဖတ်၍ "သင်္ဂြိုဟ်"ဟု မြန်မာသံပီပီ ရေးမှတ်ခဲ့ကြပေသည်၊ ရာဇဂဟ ပါဠိမှ ရာဇဂြဟ သက္ကတကို ရာဇဂြိုဟ်ဟု မြန်မာမှုပြု ရေးမှတ်ကြသကဲ့သို့ ဖြစ်ပေသည်။

အဘိဓမ္မတ္ထသင်္ဂဟခေါ် သင်္ဂြိုဟ်ကျမ်းသည် အဘိဓမ္မာ ၇ ကျမ်းလာ ပရမတ္ထသဘောအဓိပ္ပာယ်များကို အကျဉ်းချုပ်၍ လူတိုင်းနားလည်အောင် ရေးသားပြုစုသည့် အဋ္ဌကထာကျမ်းငယ် ဖြစ်သည်၊ ယင်းသင်္ဂြိုဟ်အဋ္ဌကထာကို မြန်မာဘာသာဖြင့် ဖွင့်ဆိုသောကြောင့် သင်္ဂြိုဟ်ဘာသာဋီကာဟု အမည်ပေးခြင်းဖြစ်သည်။

သင်္ဂြိုဟ်ဘာသာဋီကာကို ပြုစုရာ၌ ကျမ်းပြုဆရာတော်သည် စာပေ ပရိယတ်နှံ့စပ်၍ ခေတ်ကို သိမြင်ကျွမ်းကျင်သော ဆရာတော်ဖြစ်ကာ ရှေးက ဖွင့်ဆိုခဲ့ကြသော ပါဠိဘာသာရေး ဋီကာများနှင့် မြန်မာဘာသာ အဖွင့်ကျမ်းများကို ကြည့်ရှု လေ့လာခွင့် ရခဲ့သောကြောင့် အကောင်းဆုံးဘာသာဋီကာတစ်စောင် အဖြစ်သို့ ရောက်ရှိခဲ့ပေသည်။

ဤဝေဖန်ချက်ကို ရေးသားရန် လေ့လာကြည့်ရှုသော သင်္ဂြိုဟ်ဘာသာဋီကာစာအုပ်မှာ ဆဋ္ဌမအကြိမ်ရိုက် ဖြစ်သည်ကို သိရခြင်းဖြင့် ဤကျမ်းကို မည်မျှ လူကြိုက်များသည်, မည်မျှ အသုံးများသည်ကို ခန့်မှန်းသိနိုင်ပေသည်။

သဂြိုဟ်ဘာသာဋီကာကျမ်းစာသည် ဆရာတော် အရှင်ဇနကာဘိဝံသ ပြုစုသော ကျမ်းစာတို့တွင် အအောင်မြင်ဆုံး အကျော်စောဆုံးကျမ်းစာဟုပင် ဆိုနိုင်ပါသည်၊ မြန်မာပြည် သဂြိုဟ်စာပေ လေ့လာကြသော ပရိသတ်တွင် အသင်္ခါရိက သသင်္ခါရိက မပြေမလည် မပြီးမပြတ် ဖြစ်နေခဲ့ရာ သဂြိုဟ်ဘာသာဋီကာ ပေါ်ထွက်လာသောအခါ အေးငြိမ်းသွားသည်ဟု ပရိတ်ကြီးနိဿယသစ်ဆရာတော် (အဂ္ဂမဟာပဏ္ဍိတ) အရှင်ဝါသေဋ္ဌာဘိဝံသက ဓာတုကထာဘာသာဋီကာနိဒါန်းတွင် ရေးသားခဲ့ပါသည်။

ဒုတိယကမ္ဘာစစ် မဖြစ်မီ အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် ဆက်ကပ်ရန် စဉ်းစားရာတွင်လည်း ဤကျမ်းစာပင် အဓိက ဖြစ်ပါသည်၊ ညောင်တုန်း ရွှေဟင်္သာတောရ စံကျောင်းဆရာတော်ကြီးကမူ ကျမ်းကကြီးပြီး လူက ငယ်နေသည်ဟုပင် မိန့်ခဲ့ကြောင်း သိရပါသည်။

သဂြိုဟ်ဋီကာများ မြန်မာပြည်တွင် အများပင် ရိုက်နှိပ်ပြီး ရှိနေခဲ့ရာ ဆရာတော့်ကျမ်းစာမှာ အများဆုံး အသုံးပြုလျက်ရှိသည်ဟု ဆိုနိုင်ပါသည်။

## ဝီထိနှင့်သုံးချက်စုဘာသာဋီကာ

**စာမျက်နှာ – ၄၀၈။**
**စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၀၀။**

သဂြိုဟ်ဘာသာဋီကာ ဝီထိပိုင်း, ပစ္စည်းပိုင်းအဆုံး၌ တွဲဖက်လေ့လာလျှင် သာ၍ သင့်မြတ်ဖွယ်ရှိသော ကျမ်းစာဟု ရေးထားသည်၊ အခြေပြုသဂြိုဟ်နှင့်သဂြိုဟ်ဘာသာဋီကာကျမ်းစာများ ရိုက်နှိပ်ပြီးမှ သဂြိုဟ်ဘာသာဋီကာလေ့လာသူများအတွက် တွဲဖက်အသုံးပြုရန် ရိုက်နှိပ်ခြင်း ဖြစ်ပါသည်၊ ဆရာတော်ကိုယ်တိုင် ရေးသောနိဒါန်းကို အနည်းငယ် ဖော်ပြပါမည်။

စိတ်တို့၏ အစဉ်အတန်းကို စိတ်ဝီထိ, ရုပ်တို့၏ အစဉ်အတန်းကို ရုပ်ဝီထိဟူ၍ သာသနာတော်ဝယ် အတော်ထင်ရှား အသုံးများသော သိဖွယ်တစ်ရပ် ရှိ၏၊ ထိုဝီထိကို နားမလည်လျှင် များစွာသော ပါဠိတော် အဋ္ဌကထာဝယ် (အထူးအားဖြင့် ပဋ္ဌာန်းဆိုင်ရာဝယ်) ယောင်လည်လည် ဖြစ်ကြရသည်။

ဝိပဿနာကမ္မဋ္ဌာန်းကို ကြိုးပမ်းအားထုတ်သော ယောဂီပုဂ္ဂိုလ်များအတွက် အနိစ္စ ဒုက္ခ အနတ္တ ထင်မြင်နိုင်ဖို့အချက်မှာ ဤဝီထိများသာလျှင် အသက်ပမာ ဖြစ်၏၊ ထို့ကြောင့် သာသနာတော်၏ နှလုံးသည်းပွတ်ပမာ လွန်စွာအရေးကြီးသော ဝီထိ၏အကြောင်းအရာကို ကောင်းစွာ နားလည်ထိုက်ကြပေသည်။

ထိုသို့ နားလည်ထိုက်သည့်အားလျော်စွာ စိတ်ဝီထိအတွက်ကို စဉ်းစားလျှင် အဘိဓမ္မတ္ထသဂြိုဟ် ဝီထိပိုင်းအဆိုမှာ လွန်စွာကျဉ်းမြောင်းလှသဖြင့် ပြည့်ဝစုံလင်သော မြန်မာလိုဆိုရိုးကို ရှေးဆရာတော်တို့ အမျိုးမျိုး စီစဉ်တော်မူခဲ့ကြသော်လည်း ရှည်မျောတော်မူလှသည့်ပြင် အဓိပ္ပာယ်စုံလင်အောင် မဖော်ပြသည့်အတွက်ကြောင့် အာဂုံနှုတ်တက် ဆောင်ရွက်ဖို့ရာ များစွာ စိတ်မပါကြချေ၊ ထို့ကြောင့် ရှေးဆရာတော်တို့၏ လက်ရိုးလက်ဆန်း ဝီထိခန်းတို့ကို မှီငြမ်းအတု လက်ကိုင်ပြုလျက် ရှုလိုက်တိုင်း သန့်ရှင်းအောင် မကျဉ်းမကျယ် အဓိပ္ပာယ်နှင့်တကွ ဝီထိဆိုရိုးကို စီစဉ်လိုက်ရပေသည်။

အထက်ပါ နိဒါန်းသည်ပင် ကျမ်းစာ၏ သဘောသွားကို ဖော်ပြပြီး ဖြစ်ပါသည်၊ ၁-သဂြိုဟ်ပါဠိ၊ ၂-အခြေပြုသဂြိုဟ်၊ ၃-သဂြိုဟ်ဘာသာဋီကာ၊ ၄-ဝီထိနှင့်သုံးချက်စုဘာသာဋီကာ ဤ ၄ အုပ်သည် တွဲဖက်လေ့လာရန် ဖြစ်ပါသည်။

## ဋီကာကျော်နိဿယ

**စာမျက်နှာ – ၄၀၈။**
**စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၀၀။**

ဤဋီကာမှာ "အဘိဓမ္မတ္ထဝိဘာဝိနီ"ဟု ကိုယ်ပိုင်နာမည်ရင်း ရှိ၏၊ "အဘိဓမ္မာတရားတို့၏ အနက်သဘောကို ထင်စွာဖော်ပြသောကျမ်း"ဟု အဓိပ္ပာယ် ရသည်၊ သို့သော် ဤနာမည်ရင်းကို မခေါ်ကြပါ၊ သိလည်း မသိကြပါ၊ အများခေါ်သံကြား အတိုင်းပင် "ဋီကာကျော်"ဟူ၍သာ ခေါ်လိုက်ကြပါတော့သည်။

ဤကျမ်းသည် ပါဠိဘာသာဖြင့် ဖွင့်ဆိုသောကျမ်း ဖြစ်၏၊ သို့ပါလျက် "ကျော်"ဟူသော မြန်မာအသံဖြင့် နာမည်တွင်လျက် ရှိသည်၊ စာသင်သားများ၏အလယ်မှာ ကျော်ကြားလောက်အောင် ကောင်းသောကြောင့် "ကျော်"ဟူသော ဝေါဟာရကို ချစ်စနိုးအားဖြင့် ပေးကြဟန်တူ၏။

နာမည်ကျော် သင်္ဂြိုဟ်လက်သန်းအဋ္ဌကထာကျမ်းကလေးကို ဖွင့်ပြသောဋီကာ ဖြစ်၏၊ အရှင်သုမင်္ဂလသာမိထေရ် ပြုစီရင်တော်မူသည်၊ ရှားရှားပါးပါးရှိသော ဤဋီကာကျော်၏ အဖွင့်ဖြင့်ပင် သင်္ဂြိုဟ်ကျမ်းကလေးကို ချဲ့ထွင်သိနိုင်ကြခြင်း ဖြစ်ဟန်တူပါသည်၊ ထို့ကြောင့် ဤဋီကာကျမ်းသည် စာသင်သားတို့၏ ဆန္ဒကို ကျေနပ်မှုရအောင် အပြည့်အဝ ပေးနိုင်၍ ကျော်ကြားခဲ့ရခြင်း ဖြစ်ပေလိမ့်မည်၊ ထို့ကြောင့် မလွဲသာ မရှောင်သာ ဤဋီကာကိုလည်း ဆရာတော် အရှင်ဇနကာဘိဝံသက ပို့ချ၍ နိဿယရေးရတော့၏၊ တစ်ခါက ဤဋီကာကျော်ကို ချပို့ရင်း ဆရာတော်က ဤသို့ အမိန့်ရှိဖူးသည်။

"အဘိဓမ္မာပါဠိတော်ကြီးများ, အဋ္ဌကထာ, ဋီကာကြီးများကို ကျွမ်းကျင်စွာ လေ့လာပြီးလျှင်လည်း ဤဋီကာကျော်ကို တက်ဖို့ မလိုတော့ပါဘူး၊ ဤဋီကာကျော်ကို တက်ရုံနဲ့လဲ အဘိဓမ္မာသဘာဝတွေကို ပိုင်ပိုင်နိုင်နိုင် ရှင်းရှင်းလင်းလင်း နားမလည်နိုင်သေးပါဘူး၊ ဒါ့ကြောင့် ဤဋီကာကျော်ကို စာမေးပွဲတွေက ပြဋ္ဌာန်းထားလို့သာ မလွဲသာ မရှောင်သာ ချပို့ ရေးသားပေးရတာပါ၊ သို့ဖြစ်၍ "ဘာသာဋီကာ"ဟု နာမည် မတပ်တော့ဘဲ "ဋီကာကျော်နိဿယ"ဟူ၍မျှသာ နာမည်တပ်လိုက်တော့တယ်"

ဤသို့လျှင် ဆရာတော် အရှင်ဇနကာဘိဝံသ ရေးသားသမျှ ကျမ်းစာအုပ်ကြီးတိုင်းကို "ဘာသာဋီကာ" တပ်ခဲ့သော်လည်း ဤဋီကာ၌ "ဘာသာဋီကာ" မတပ်ခြင်း၏ အကြောင်းကို အမိန့်ရှိဖူးပါသည်။

## အဋ္ဌသာလိနီဘာသာဋီကာ

**စာမျက်နှာ – (ဘာသာဋီကာ မေ္ဘသင်္ဂဏီပါဠိတော် မူလဋီကာနိဿယများပါ)**
**၆၄၉ (ပ–တွဲ)၊ ၇၁၉ (ဒု–တွဲ)၊ ၅၉၆ (တ–တွဲ)၊ ၆၁၆ (စ–တွဲ)။**
**စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၂၈။**

မြတ်စွာဘုရား ဟောတော်မူသော အဘိဓမ္မာ ၇ ကျမ်းရှိသည်တွင် ပထမဆုံးကျမ်းမှာ ဓမ္မသင်္ဂဏီကျမ်း ဖြစ်သည်၊ ဓမ္မသင်္ဂဏီကျမ်း၏အဖွင့် အဋ္ဌကထာကျမ်းမှာ အဋ္ဌသာလိနီအမည် ရှိသည်၊ "အဋ္ဌသာလိနီ" ဟူသော ဝေါဟာရ၏ အနက်အဓိပ္ပာယ်မှာ "အနှစ်သာရရှိသောတရားများ၏ အနက်အဖွင့်ကျမ်း"ဟု ဆိုလိုပေသည်၊ အဋ္ဌကထာဆရာကြီး အရှင်မဟာဗုဒ္ဓဃောသ ပထမဆုံးပြုသောကျမ်းဟု ခန့်မှန်းကြသည်၊ ဓမ္မသင်္ဂဏီကျမ်းလာ တရားတော်များမှာ အဘိဓမ္မာသဘောတရားများဖြစ်သောကြောင့် ခက်ခဲနက်နဲသည်။

(က) စကားလုံး ပါဠိဝေါဟာရအနေအားဖြင့်လည်း ခက်ခဲနက်နဲသည်၊
(ခ) စကားလုံး၏ အနက်အဓိပ္ပာယ် အနေအားဖြင့်လည်း ခက်ခဲနက်နဲသည်၊
(ဂ) စကားလုံးနှင့် အနက်သဘောများကို ဟောကြားပုံ အစီအစဉ်အားဖြင့်လည်း ခက်ခဲနက်နဲသည်၊
(ဃ) စကားလုံး၏ အနက်အဓိပ္ပာယ်တို့ကို ဟောကြားထားသည့် အစီအစဉ်အားလုံးကို သဘောကျထိမိအောင် သိမြင်ရန်လည်း ခက်ခဲနက်နဲသည်။

ဤခက်ခဲနက်နဲလှသည့် ဓမ္မသင်္ဂဏီကျမ်းကို နောင်လာနောက်သားများ သိမြင်နိုင်ရန် အဋ္ဌသာလိနီကျမ်းက ဖွင့်ဆိုသည်၊ အဋ္ဌသာလိနီကျမ်းသည်လည်း ခက်ခဲနက်နဲနေပြန်ရာ အရှင်အာနန္ဒာက မူလဋီကာကျမ်းဖြင့် ထပ်မံ ဖွင့်ဆိုရပြန်သည်၊ ယင်းမူလဋီကာကျမ်းသည်လည်း မိမိ ဖွင့်ဆိုရာဖြစ်သည့် အဋ္ဌကထာကျမ်းနှင့် သဘောမတူသည့်အချက်များ ရှိသည်၊ ပြန်လည် ငြင်းချက်ထုတ်သည်။

ယင်းသို့ အဖွင့်ခံရသည့် အဋ္ဌသာလိနီအဋ္ဌကထာမှာ သာမန်မျှ အရှင်မဟာဗုဒ္ဓဃောသ စိတ်ကူးဖြင့် ရေးသည် မဟုတ်ချေ၊ ရှေးအစဉ်အဆက် ဆောင်ရွက်ခဲ့သည့် ဘုရားကိုယ်တော်တိုင် ဖွင့်ဆိုချက် မဟာအဋ္ဌကထာကြီးများကို အကျဉ်းချုပ် ရေးသားသည့် ကျမ်းဖြစ်သည်။

ယင်းသို့ ဖြစ်ပါလျက် အဋ္ဌသာလိနီအဋ္ဌကထာကို ဖွင့်ပြသည့် ဋီကာကျမ်းက အနက်အဓိပ္ပာယ် ပေါ်လွင်ထင်ရှားရုံမျှသာ ဖွင့်သည် မဟုတ်ဘဲ မိမိနှင့် သဘောမတူရာ၌ စကားလုံးရင့်ရင့်သုံး၍ ဝေဖန်ခြင်းကို ခံခဲ့ရသည်၊ သို့ရှေ့ရေးနှင့် နောက်ရေးဖြစ်၍ မည်သို့မျှ ပြန်လည် ဖြေရှင်းခွင့်မရနိုင်ဘဲ ဖြစ်နေသည်။

ဤသို့ သံဝဏ္ဏေတဗ္ဗ အဖွင့်ခံ အဋ္ဌသာလိနီနှင့် သံဝဏ္ဏနာ အဖွင့်ဋီကာကျမ်းတို့၏ ကြည့်မကောင်း ရှုမကောင်း အငြင်းပွားမှု ညီညွတ်ပြေလည်အောင် ရှင်းလင်းညှိနှိုင်းနိုင်စွမ်းသည့် ဋီကာဆရာကြီး အရှင်ဓမ္မပါလ ပေါ်ထွန်းလာသည်၊ အရှင်မြတ်သည် အဋ္ဌသာလိနီအဋ္ဌကထာနှင့် မူလဋီကာတို့၏ အငြင်းပွားမှုများကိုလည်းကောင်း, အဋ္ဌသာလိနီမှ ခဲရာခဲဆစ်များကိုလည်းကောင်း, မူလဋီကာရှိ ခဲရာခဲဆစ်များကိုလည်းကောင်း ညှိနှိုင်းဖွင့်ဆိုသည့် ဋီကာကျမ်းတစ်ဆူ ထပ်မံ ပြုစုတော်မူသည်၊ ယင်း အရှင်ဓမ္မပါလ ပြုစုတော်မူသော နောက်ထပ် အသစ်ဋီကာကို အနုဋီကာဟု ခေါ်ဝေါ်သည်၊ ယခင်ရှိပြီး အရှင်အာနန္ဒာ၏ ဋီကာကို မူလဋီကာဟု ခေါ်ဝေါ်ကြပေသည်။

ဖော်ပြခဲ့သည့်အတိုင်း ဋီကာနှစ်စောင်ဖြင့် ဖွင့်ပြရလောက်အောင် လေးနက်ခက်ခဲသည့် အနက်အဓိပ္ပာယ် သဘောတရားများပါရှိသော အဋ္ဌသာလိနီအဋ္ဌကထာကို ဆရာတော် အရှင်ဇနကာဘိဝံသသည် မြန်မာဘာသာဖြင့် အဋ္ဌသာလိနီဘာသာဋီကာဟု ရေးသားပြုစုတော်မူသည်၊ မူရင်းအဋ္ဌကထာဆရာကိုယ်တိုင်က အနက်အဓိပ္ပာယ် ကျယ်ဝန်းများပြားသောကြောင့်လည်းကောင်း, ဓမ္မသင်္ဂဏီပါဠိတော်နှင့် မူလဋီကာနိဿယများကိုလည်း ပူးတွဲ ထည့်သွင်းခြင်းကြောင့်လည်းကောင်း အဋ္ဌသာလိနီဘာသာဋီကာကျမ်းမှာ အလွန်ကြီးမားလှပေသည်၊ ပထမတွဲ, ဒုတိယတွဲ, တတိယတွဲ, စတုတ္ထတွဲဟူ၍ ၄ တွဲ ခွဲရိုက်နှိပ်ရပေသည်၊ ပထမတွဲမှာ အစမှ သုတ္တန္တမာတိကာအဖွင့် ပြီးသည်အထိ ပါဝင်သည်။

အဋ္ဌသာလိနီဘာသာဋီကာ ဒုတိယတွဲတွင် စိတ္တုပ္ပာဒကဏ္ဍ ကာမာဝစရကုသိုလ်အဖွင့်မှစ၍ ရူပါဝစရကုသိုလ် စတုက္ကနည်း ပြီးဆုံးသည်အထိ ပါဝင်သည်။

အဋ္ဌသာလိနီဘာသာဋီကာ တတိယတွဲတွင် ရူပါဝစရကုသလပဉ္စကနည်း အဖွင့်မှစ၍ ရူပကဏ္ဍ ရူပါယတနနိဒ္ဒေသအထိ ပါဝင်သည်။

အဋ္ဌသာလိနီဘာသာဋီကာ စတုတ္ထအတွဲတွင် ရူပကဏ္ဍ သဒ္ဒါယတနနိဒ္ဒေသမှစ၍ အားလုံးပြီးသည်အထိ ရေးသားဖွင့်ဆိုသည်။

ဤ အဋ္ဌသာလိနီဘာသာဋီကာ လေးတွဲလုံး၌ မူရင်း တန်ဖိုးမဖြတ်နိုင်လောက်အောင်ကောင်းသည့် 875
အဘိဓမ္မာသဘောတရားများ ပါဝင်သည့်ပြင် အတိုင်းမသိ တန်ဖိုးရှိသည့် ဓမ္မသင်္ဂဏီပါဠိတော်နိဿယနှင့်

မူလဋီကာနိဿယများပါ ပူးတွဲရေးသား ရိုပ်နှိပ်ထားပေရာ အပိုင်းအခြားမရှိအောင် ကောင်းမြတ်သည့် ကျမ်းကြီးတစ်ဆူ ဖြစ်သွားလေသည်။

## သမ္မောဟဝိနောဒနီဘာသာဋီကာ

**စာမျက်နှာ - ၆၈၅ (ပ-တွဲ)၊ ၈၆၀ (ဒု-တွဲ)၊ ၇၃၈ (တ-တွဲ)။**
**စတင်ရိုက်နှိပ်သောခုနှစ် - ၁၃၃၆ (ပ-တွဲ)၊ ၁၃၃၉ (ဒု-တွဲ)၊ ၁၃၄၁ (တ-တွဲ)။**

မြတ်ဗုဒ္ဓဘုရားရှင်ဟောကြားတော်မူသည့် အဘိဓမ္မာ ခုနစ်ကျမ်းတို့တွင် ဝိဘင်းပါဠိတော်သည် ဒုတိယ ကျမ်းစာ ဖြစ်သည်၊ ဝိဘင်းပါဠိတော်၌ ပရမတ္ထတရား လေးပါးတို့ကို ခန္ဓာ, အာယတန, ဓာတ်, သစ္စာ အစရှိသည့် တရားအမျိုးအစား တစ်ဆယ့်ရှစ်မျိုးတို့ဖြင့် ခွဲခြား၍ ဝေဖန်တော်မူသည်၊ ယင်းသို့ ဝေဖန် ဟောကြားသည့် ဝိဘင်းကျမ်းကို ဖွင့်ဆိုသော အဋ္ဌကထာကျမ်းကို အရှင်မဟာဗုဒ္ဓဃောသ ပြုစုတော်မူ သည်၊ သမ္မောဟဝိနောဒနီ ဟူသည်မှာ မသိတွေဝေမှုတွေကို ရှင်းလင်းချက်ဟူ၍ အနက်အဓိပ္ပာယ်ရှိသည်။

ယင်းသမ္မောဟဝိနောဒနီဟူသော အမည်သည် ရှည်လွန်းသောကြောင့် မြန်မာတို့က သမ္မော အဋ္ဌကထာဟု တိုတို ခေါ်ဝေါ်ကြသည်၊ သမ္မောအဋ္ဌကထာ၏ ခက်ခဲ နက်နဲသော အနက်အဓိပ္ပာယ်တို့ကို အရှင်အာနန္ဒာက မူလဋီကာရေး၍ ဖွင့်ဆိုသည်။

သမ္မောနှင့် မူလဋီကာတို့ကို အနုဋီကာရေး၍ အရှင်ဓမ္မပါလက ထပ်ဆင့် ဖွင့်ဆိုတော်မူသည်၊ ခက်ခဲ နက်နဲသော ဝိဘင်းပါဠိတော်၏အဖွင့် သမ္မောအဋ္ဌကထာကို ဆရာတော် အရှင်ဇနကာဘိဝံသက မြန်မာ ဘာသာဖြင့် မူလဋီကာ အနုဋီကာ အဖွင့်များပါ ထည့်သွင်း၍ သမ္မောဟဝိနောဒနီဘာသာဋီကာကို စီရင် ပြုစုတော်မူသည်။

ယင်းသမ္မောဟဝိနောဒနီဘာသာဋီကာကျမ်းသည် စာသင်သားများအတွက် စာမေးပွဲအောင်ရန်ကိုသာ ကျေးဇူးပြုသည့်ကျမ်း မဟုတ်ချေ၊ ဗုဒ္ဓအဘိဓမ္မာ လေ့လာလိုသူများအတွက်လည်း များစွာ အကူအညီ အထောက်အပံ့ကို ရစေနိုင်ပေသည်။

သမ္မောဟဝိနောဒနီဘာသာဋီကာ ဒုတိယတွဲ၌ ဣန္ဒြိယဝိဘင်းမှစ၍ ဗောဇ္ဈင်္ဂဝိဘင်းအထိပါဝင်သည်၊ သမ္မောဟဝိနောဒနီဘာသာဋီကာတတိယတွဲ၌ ဈာနဝိဘင်းအဖွင့်မှ စ၍ ဓမ္မဟဒယဝိဘင်းအထိ ဝိဘင်း အဖွင့်အားလုံး ပြီးဆုံးသည်။

## သမ္မောဟဝိနောဒနီဘာသာဋီကာအတွက်မှတ်ဖွယ်

သမ္မောဘာသာဋီကာနှင့်စပ်၍ သဒ္ဓါတရားရှိသူ စာဖတ်သူများ သိနိုင်ရန် ဖော်ပြလိုပါသည်၊ စာဖတ် သူသည် ကျမ်းစာတတ်ကျွမ်းသူ ဖြစ်စေ, မတတ်ကျွမ်းသူဖြစ်စေ ပထမတွဲ နိဒါန်းကို အစ အဆုံး ဖတ်သင့် ပါသည်၊ ဖတ်ပြီးသောအခါ မုချ အကျိုးရရှိလိမ့်မည်ဟု တာဝန်ယူနိုင်ပါသည်၊ ၎င်းမှတစ်ဆင့် စာပေဝါသနာ ပါသူ ဖြစ်လျှင် အသေးစိတ် မာတိကာကို ကြည့်သင့်ပါသည်၊ ထိုသို့ ကြည့်ခြင်းဖြင့် မိမိ၏ အသိဉာဏ်ကို ပွင့်လင်းလာစေပါလိမ့်မည်၊ မိမိ သိလိုသော အယူအဆများကိုလည်း သိတန်သမျှ သိရပါလိမ့်မည်၊ ဥပမာ-

**စာသင် စာချ အကျိုးရလင်္ကာ။ ။စာချ စာသင်, အလုပ်ခွင်ဝယ်, နေ့စဉ်မွေ့လျော်, များသူတော်တို့, ရှင်ပျော်လှဲ့လ, သစ္စါကြွ၍, ဉာဏစင်ပြု, သင် ချမှုကား, ထိုသူစီးပွား, သုတများသဖြင့်, စဉ်းစာဉာဏ်ကြွယ်, အမြင်ကျယ်၏၊ မကွယ်စေကာ, ကိလေသာလည်း, သူငါရှုန့်ကြမ်း, ပြစ်စတမ်းသို့, ပရမ်းပတာ, မဖြစ်လာဘဲ,**

ဤသာ မစ္ဆေရ, မထေကြွဘူး၊ ရာဂ ဓေါသော, မာန မောဟို, အပြောမကျယ်, သေးငယ်ငယ်မှ, စ၍ပဟာန်, တဒင်္ဂနှင့်, ဝိက္ခမ္ဘန, ပယ်နိုင်ကြသည်, ... သင် ဈာအကျိုး စာတန်ခိုး ... ဟု သဒ္ဒါတရားဖြစ်ဖွယ် လင်္ကာလေးများဖြင့်လည်း ဖော်ပြ၍ သဒ္ဒါလွန်သူ, ပညာလွန်သူများကိုလည်း မှတ်ချက်ဖြင့် ဖော်ပြထားသည်မှာ ဗုဒ္ဓဘာသာဝင်များ သိထိုက်လှပါသည်။

ထိုထက် လောကီ လောကုတ္တရာ မှတ်ဖွယ်များကို ခိုင်ခိုင်မာမာ အလိုရှိသူများသည် ကျမ်းဂန်မတတ်သော်လည်း မာတိကာကို ကြည့်ပြီး မှတ်ချက်များကို ကြည့်ရသည်နှင့်ပင် အလွန် အကျိုးရစေပါသည်။

**ဥပမာ- စေတနာဒွိကမကမ္ဗ ဘဝေသီ။** ။ထိုပုဂ္ဂိုလ်မျိုးကား အဘိဓမ္မာသဘောကို နည်းနည်းပါးပါး လိုက်စားဖူး၏၊ ထို့ကြောင့် ကျောင်းဆောက်ရာ၌ ကုန်သောငွေသည် နောက်ဘဝ၌ အကျိုးပေးသည် မဟုတ်, စေတနာကသာ အကျိုးပေးသည်ဟု အမှန်အတိုင်း ယူဆ၍ သူကိုယ်တိုင်က မည်သည့် ဒါန သီလစသော ကုသိုလ်ကိုမျှ ထိထိရောက်ရောက် မလုပ်၊ စိတ်ကူးဖြင့် ကျောင်းဆောက်နေ၏၊ စိတ်ကူးဖြင့် ဥပုသ်စောင့်နေ၏၊ အခြား ပုညကြိယာဝတ္ထုတို့ကိုလည်း စိတ်ကူးဖြင့်ချည်း ပြုနေ၏၊ တကယ်လုပ်ဖို့ရန် တိုက်တွန်းသောအခါ ကုသိုလ်ဆိုတာ စိတ်စေတနာသာ လိုရင်း ဖြစ်ပါတယ်၊ သူများ လှူသည်ကို ဝမ်းမြောက်ဝမ်းသာ သာဓုခေါ်လျှင်လဲ ကုသိုလ် ရတာပါပဲဟု ပြော၏၊ ထိုပုဂ္ဂိုလ်မျိုးသည် ဆေးမှားကြောင့် ဖြစ်ပေါ်လာသော ရောဂါကို ကုစား၍ မလွယ်သကဲ့သို့ ထိထိရောက်ရောက် ကုသိုလ်ပြုဖို့ရန် ဟောပြော၍ မလွယ်၊ ထိုသို့ ကုသိုလ် မရှိရကား သူတစ်ပါးကို ကဲ့ရဲ့သော အကုသိုလ်တွေနှင့် မိမိက အထင်ကြီးသော အကုသိုလ် တိုးပွား၍ ငရဲ၌ လားရတတ်လေသည်။

**မုဋ္ဌဿတိ အသမ္ပဇာနာ။** ။"တွေဝေသူ, ညံ့ဖျင်းသူ, ဉာဏ်နည်းသူ"ဟူသော အနက်ကို ဟော၏၊ မုဋ္ဌေါ-ညံ့ဖျင်းသည်၊ ဟုတွာ-ဖြစ်၍၊ ပသန္နော-ကြည်ညိုထိုက်သူ မဟုတ်ပါဘဲ ကြည်ညိုသူတည်း၊ (သန့်ရှင်းသော ဉာဏ်ကား မရှိ) ဉာဏ်ဖြင့် သက်ဝင်ကြည်ညိုသူ မဟုတ်၊ (ကြည်ညိုဖွယ် မဟုတ်သူ၌) မိစ္ဆာအယူရှိသူ တို့က သူတို့၏ ဆရာတွေကို ကြည်ညိုနေကြသကဲ့သို့တည်း။

ဤ ဥပမာတရား ဆုံးဖြတ်ပုံ မှတ်ချက်များကို ဖော်ပြသည်မှာ-

မာတိကာတွင် "ဂုဏ်နှင့် ကျေးဇူးအထူး, လောကန္တရိတ်ငရဲ, သီလရှိမှ ဘာဝနာ ပြည့်ပုံ, ဟဒယ (နှလုံး)၏ တည်ရာ, နိဗ္ဗာန်မှ ပြန်လာကြပုံ, ဓမ္မဝိတက်အကျိုး, အမ္ဗာမွေးတို့၏ ကံချင်း မတူပုံ, အဆိပ်ပင်မှ အချိုသီး, စူဠသောတာပန်, ဈာန်ကစားသော သာမဏေ, ဈာန်လျှောသော လူထွက်ကြီး, ကလျာဏပုထုဇဉ် စသည်ဖြင့် ဗုဒ္ဓဘာသာကို ခိုင်ခိုင်မာမာ အနှစ်ကျကျ သိလိုသူများ ကျမ်းဂန်မတတ်သော်လည်း ဉာဏ်မီသမျှ လေ့လာထိုက်ပါသည်။

ဆရာတော်သည် ကျမ်းစာများကို တတ်မြောက်အောင် သယူရုံသာ ရည်စူးရေးသားခြင်း မဟုတ်၊ ကျင့်နိုင်ရန် ရည်စူးရေးသားခြင်း ဖြစ်သဖြင့် ဗုဒ္ဓသာသနာတွင် အကျင့်နှင့် ပတ်သက်၍ သမ္မောဟ အဋ္ဌကထာသည် အဘိဓမ္မာသင်စာဟု ဆိုရစေကာမူ သမထ ဝိပဿနာ အားထုတ်လိုသူများ အထောက်အကူ ပြုသော ကျမ်းစာ ဖြစ်ပါသည်၊ ဤဦးတည်ချက်ကို မလွတ်အောင် သတိပေး ဖော်ပြထားသော ဘာသာဋီကာ ကျမ်းစာ ဖြစ်ပါသည်။

## ဓာတုကထာအဋ္ဌကထာဘာသာဋီကာ

**စာမျက်နှာ - ၇၉ + ၁၅၉ + ၂၉။**

**စတင်ရိုက်နှိပ်သောခုနှစ် - ၁၃၄၂။**

အဘိဓမ္မာခုနစ်ကျမ်းရှိသည်တွင် ဓာတုကထာကျမ်းသည် တတိယမြောက်ကျမ်း ဖြစ်သည်။

ဤကျမ်း၌ ဓာတုဟူသည် မိမိသဘောကို ဆောင်တတ်သည်ဟူသောအနက်နှင့်အညီ အားလုံးသော

ပရမတ္ထတရားများကို "ဓာတ်"ဟု အမည်ပေးထားသည်၊ ခန္ဓာနှင့် အာယတနတရားများကိုလည်း ဓာတ်တရားဟူ၍ပင် ယူဆသည်၊ ဓာတ်တရားနှင့် ပဋိစ္စသမုပ္ပါဒ်တရားများကိုလည်း ဓာတ်ဟူ၍ပင် ယူဆ ဟောကြားတော်မူသည်၊ ထို့ကြောင့် ဤကျမ်းအမည်ကို "ဓာတုကထာကျမ်း"ဟူ၍ အမည်ပေးထားခြင်း ဖြစ်သည်။

အခြားသော အဘိဓမ္မာ ခြောက်ကျမ်းမှာလည်း ဤ ခန္ဓာ အာယတန စသော ပရမတ္ထတရားများ ကိုပင် ဟောသည်မဟုတ်ပါလောဟု မေးဖွယ်ရှိသည်၊ အခြားကျမ်းများမှာ ဟောသော်လည်း ဤကျမ်းမှာ လောက် ကျယ်ပြန့်ခြင်း မရှိပေ၊ ဤကျမ်းမှာသာ ကျယ်ပြန့်စွာ ဟောသောကြောင့် "ဓာတုကထာ"အမည် ခံယူထိုက်ပေသည်။

မှန်၏၊ အခြားကျမ်းများထက် ဤကျမ်းမှာ ခန္ဓာ အာယတန စသော ပရမတ္ထဓာတ်တရားများ ကျယ်ပြန့်စွာ ဟောကြားသည်၊ အကျဉ်းချုပ် မာတိကာကိုပင် တစ်ခုတည်းမက-

(က) နယမာတိကာ၊

(ခ) အဗ္ဘန္တရမာတိကာ၊

(ဂ) နယမုခမာတိကာ၊

(ဃ) လက္ခဏမာတိကာ၊

(င) ဗာဟိရမာတိကာ ဟူ၍ မာတိကာ ငါးမျိုးထား၍ အကျယ်ဝေဖန်ဟောကြားတော်မူသည်။

ထို့ကြောင့် ဤတတိယမြောက် အဘိဓမ္မာကျမ်းသည်သာ "ဓာတုကထာကျမ်း"ဟူသော အမည်ကို ခံယူထိုက်ပေသည်၊ ဤကျမ်း၌ အဋ္ဌကထာကို မြန်မာဘာသာဖြင့် ဖွင့်ပြသည့် ဘာသာဋီကာသာမက ပါဠိတော်နှင့် မူလဋီကာနိဿယကိုလည်း ထည့်သွင်းထားသည်။

## ပုဂ္ဂလပညတ္တိအဋ္ဌကထာဘာသာဋီကာ

**စာမျက်နှာ - ၂၀၈ + ၇၉ + ၇၄။**
**စတင်ရိုက်သောခုနှစ် - ၁၃၄၂။**

ပုဂ္ဂလပညတ္တိကျမ်းသည် အဘိဓမ္မာခုနစ်ကျမ်းတွင် စတုတ္ထမြောက် အဘိဓမ္မာကျမ်း ဖြစ်သည်၊ ပုဂ္ဂလပညတ္တိ ဟူသည်မှာ... ရှေ့ ဓမ္မသင်္ဂဏီကျမ်း ဝိဘင်းကျမ်း ဓာတုကထာကျမ်းတို့ဖြင့် ခန္ဓပညတ်၊ အာယတနပညတ်၊ ဓာတုပညတ်၊ ဣန္ဒြိယပညတ်များကို ပြဆိုပြီး ဖြစ်သောကြောင့် ဤစတုတ္ထမြောက်ကျမ်း၌ ပုဂ္ဂိုလ် အကြောင်းအရာများကို သူ့နည်းနှင့်သူ တစ်မျိုးမှ ဆယ်မျိုးအထိ ခွဲခြားဝေဖန်၍ ဟောကြားထားသော ကြောင့် ပုဂ္ဂလပညတ္တိ-ပုဂ္ဂလပညတ်ကျမ်းဟု ခေါ်ဆိုပေသည်။

ယင်းပုဂ္ဂလပညတ်ကျမ်းကို အရှင်မဟာဗုဒ္ဓဃောသက အဋ္ဌကထာ ရေးသားဖွင့်ဆိုသည်၊ အရှင် အာနန္ဒာက မူလဋီကာ၊ အရှင်ဓမ္မပါလက အနုဋီကာဟူ၍ ဋီကာအသီးသီး ရေးသားဖွင့်ဆိုသည်။

ပုဂ္ဂလပညတ်ကျမ်းလာ အနက်အဓိပ္ပာယ်များကို နားလည်စေရန် တောင်မြို့ မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသက မြန်မာဘာသာဖြင့် ဘာသာဋီကာ စီရင်ရေးသားတော်မူသည်။

ပုဂ္ဂလပညတ်ပါဠိတော်နိဿယနှင့် မူလဋီကာနိဿယတို့ကိုလည်း တွဲဖက်ရိုက်နှိပ်ပြီး ဓာတုကထာ ဘာသာဋီကာနှင့် တစ်အုပ်တည်း ပေါင်းချုပ်ထားပေသည်။

## ကထာဝတ္ထုဘာသာဋီကာ

### စာမျက်နှာ – ၆၈၆ (ပ–တွဲ)၊ ၄၃၅ (ဒု–တွဲ)။
### စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၄၂ (ပ–တွဲ)၊ ၁၃၄၃ (ဒု–တွဲ)။

ကထာဝတ္ထုကျမ်းသည် အဘိဓမ္မာခုနစ်ကျမ်းတွင် ပဉ္စမမြောက် အဘိဓမ္မာကျမ်း ဖြစ်သည်၊ ကထာဝတ္ထု ဟူသည် ငြင်းခုံပြောဆိုသောကြောင့် အယူဝါဒများကို ရှင်းလင်း ပြောပြဖို့ရာကျမ်းဟူ၍ အနက်အဓိပ္ပာယ် ရှိသည်၊ မှန်ပေသည်၊ ကထာဝတ္ထုကျမ်း၌ သာသနာတော်၌ ပေါ်ပေါက်လာသည့် မိစ္ဆာဝါဒအမျိုးမျိုးကို မှတ်တမ်းတင်ကာ ရှင်းလင်းဟောကြားထားတော်မူပေသည်။

ကထာဝတ္ထုကျမ်းလာ အယူဝါဒအမျိုးမျိုးတို့၏ သဘောတရားများသည် နှောင်းခေတ်ပုဂ္ဂိုလ်များ သိရန် ခက်လှသည်၊ အကယ်၍သာ ပိုင်ပိုင်နိုင်နိုင် သိမည်ဆိုပါလျှင် ယခုခေတ်၌ ထွန်းကားနေ၍ ဗုဒ္ဓဝါဒ ပညာရှင်ကြီးများက စိစစ်ပြီး အဓမ္မဝါဒအဖြစ် သတ်မှတ်ခြင်းခံရသည့် လူသေ လူဖြစ်ဝါဒနှင့် စိတ်ကို စိတ်အတိုင်းထားဝါဒ စသည်တို့သည်ပင်လျှင် ထိုခေတ်က ပေါ်ပေါက်ခဲ့သည့် မိစ္ဆာဝါဒတစ်မျိုးနှင့် ဆက်နွယ် နေကြောင်း သိရှိနိုင်မည် ဖြစ်သည်၊ ယင်းခက်ခဲလှသော မိစ္ဆာဝါဒများကို ထင်ရှားသိသာစေရန် အရှင် မဟာဗုဒ္ဓဃောသက အဋ္ဌကထာ ရေးသားဖွင့်ဆိုသည်၊ အရှင်အာနန္ဒာက မူလဋီကာရေး၍လည်းကောင်း, အရှင်ဓမ္မပါလက အနုဋီကာရေး၍လည်းကောင်း ဖွင့်ဆိုတော်မူခဲ့ကြသည်၊ ယင်းအဖွင့်ကျမ်းများကို မြန်မာ ဘာသာတတ်ကျွမ်းသူများ နားလည်နိုင်စေရန် အရှင်ဇနကာဘိဝံသက ကထာဝတ္ထုအဋ္ဌကထာဘာသာ ဋီကာ ရေးသားတော်မူခြင်း ဖြစ်သည်၊ ရေးသားတော်မူရာ၌ မူရင်းပါဠိတော်နှင့် အဖွင့်မူလဋီကာများကိုပါ တွဲဖက်လေ့လာနိုင်ကြစေရန် နိဿယရေး၍ ထည့်သွင်း ဖော်ပြထားပါသည်၊ သတ္တမဝဂ် ဝိပါကဓမ္မဓမ္မာ အဖွင့်ထိမှာ ပထမတွဲ ပြီးသည်၊ သိမှတ်ဖွယ် နိဒါန်းကိုလည်း ထည့်သွင်းထားသည်။

ကထာဝတ္ထုဘာသာဋီကာ ဒုတိယတွဲကို အဋ္ဌမဝဂ် ဆဂတိကထာ အဖွင့်မှစ၍ ကထာဝတ္ထုအဋ္ဌကထာ ပြီးသည်အထိ ရေးသားဖော်ပြသည်။

အဘိဓမ္မာခုနစ်ကျမ်းကို တစ်ကျမ်းစီ အဋ္ဌကထာ အသီးသီးရေး၍ အရှင်မဟာဗုဒ္ဓဃောသ ဖွင့်ဆို တော်မူသည်၊ ပထမဆုံး ဓမ္မသင်္ဂဏီအဋ္ဌကထာကို အဋ္ဌသာလိနီဟူ၍ အမည်ပေးတော်မူခဲ့သည်၊ ဒုတိယ ဖြစ်သည့် ဝိဘင်းအဋ္ဌကထာကို သမ္မောဟဝိနောဒနီဟု အမည်ပေးတော်မူသည်၊ ကျန်အဘိဓမ္မာငါးကျမ်း အဋ္ဌကထာကိုမူ ကျမ်းငါးမျိုးအဖွင့်ဖြစ်သည်ကို စွဲ၍ ပဉ္စပကရဏအဋ္ဌကထာဟုသာ ခေါ်ဆိုကြသည်၊ ပဉ္စပကရဏအဋ္ဌကထာဟူသည် ငါးကျမ်းအဖွင့်ဟူ၍ပင် အနက်အဓိပ္ပာယ် ရှိပေသည်။

## ယမကအဋ္ဌကထာဘာသာဋီကာ

### စာမျက်နှာ – ၄၀၈။
### စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၄၂။

အဘိဓမ္မာခုနစ်ကျမ်းတွင် ယမကခေါ် ယမိုက်ကျမ်းသည် ဆဋ္ဌမမြောက်ကျမ်း ဖြစ်သည်၊ ယမက ဟူသည်မှာ အစုံအတွဲဟူ၍ အနက်အဓိပ္ပာယ် ရှိသည်၊ ဤကျမ်း၌ ပရမတ္ထတရားများကို အနက်စုံတွဲ, တရားစုံတွဲ, ပုစ္ဆာစုံတွဲ-အနုလုံ ပစ္စနိက် အနုလောမ ပဋိလောမ စသည်ဖြင့် အစုံလိုက် အတွဲလိုက် ဟောကြားတော်မူထားသည်၊ ထို့ကြောင့် ယမက-ယမိုက်ကျမ်းဟု အမည်တပ်ထားပေသည်၊ မြန်မာ သက်သက် ပြန်ဆိုပါမူ "စုံတွဲကျမ်း"ဟု ပြန်ဆိုသင့်ပေသည်။

ယမိုက်ကျမ်းမှာလည်း ခက်ခဲ နက်နဲသော သဘောအဓိပ္ပာယ်များ ရှိနေပေရာ အဋ္ဌကထာ မူလဋီကာ အနုဋီကာ အဆင့်ဆင့် ဖွင့်ပြရသည်။

ယင်းဖွင့်ပြချက် ယမကအဋ္ဌကထာကို မြန်မာဘာသာတတ်သိသူများ လေ့လာနိုင်ကြစေရန် တောင်မြို့ မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသက ဘာသာဋီကာ ရေးသားစီရင်တော်မူသည်။

## ပဋ္ဌာနအဋ္ဌကထာဘာသာဋီကာ

**စာမျက်နှာ – ၈၀၀။**

**စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၄၂။**

ပဋ္ဌာန်းကျမ်းသည် အဘိဓမ္မာခုနစ်ကျမ်းတွင် သတ္တမမြောက်ကျမ်း ဖြစ်သည်၊ ကျမ်းစာအုပ် အရေအတွက်လည်း အများဆုံး အကျယ်ဝန်းဆုံး ဖြစ်သည်၊ ပထမတွဲမှ ပဉ္စမတွဲအထိ ငါးတွဲ ရှိသည်၊ ထို့ကြောင့် မြန်မာတို့က "ကျမ်းကြီးပဋ္ဌာန်း, ကျမ်းငယ်ဆန်း, ကျမ်းလတ် ဓာတုကထာ"ဟု ဆိုရိုးပြုကြသည်။

ပဋ္ဌာန်းဆိုသည်မှာ "ပဋ္ဌာန"ပါဠိကို မြန်မာမှုဖြင့် ပြန်ဆိုခြင်း ဖြစ်သည်၊ မြန်မာစစ်စစ် ပြန်ဆိုမည် ဆိုလျှင် အကြောင်းအမျိုးမျိုးကို ပြဆိုသည့်ကျမ်းဟူ၍ ပြန်ဆိုရပေမည်၊ အကြောင်းအမျိုးမျိုးကို ပြဆိုရာ၌ မကင်းရာ မကင်းကြောင်း ဖြစ်၍ အကျိုးအမျိုးမျိုးလည်း ပါဝင်လာပေသည်။

အကြောင်းပစ္စည်း, အကျိုးပစ္စယုပ္ပန်များကို ပဋ္ဌာန်းကျမ်း၌ များစွာ ဟောကြားထားသည်ကို လေ့လာ တွေ့ရှိရပါသည်၊ ဟေတုပစ္စည်း, အာရမဏပစ္စည်း စသည်ဖြင့် နှစ်ဆယ့်လေးမျိုး ဟောကြားထားပေသည်။

ပဋ္ဌာန်းပါဠိတော်ကိုလည်း မူလဋီကာ အနုဋီကာ အဆင့်ဆင့် ဖွင့်ပြထားပေသည်၊ ယင်းဖွင့်ဆိုချက် များသည် ပါဠိဘာသာဖြင့် ဖွင့်ဆိုထားသောကြောင့် မြန်မာဘာသာသက်သက်ကိုသာ တတ်ကျွမ်းသူတို့ အတွက် လေ့လာရန် မလွယ်သောကြောင့် တောင်မြို့ မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသက ပဋ္ဌာနအဋ္ဌကထာဘာသာဋီကာ ရေးသားစီရင်တော်မူသည်။

## ပဉ္စပကရဏဘာသာဋီကာ သိမှတ်ဖွယ်

ဤပဉ္စပကရဏဘာသာဋီကာကို ဆရာတော်သည် ၁၃၃၆ ခု ဒုတိယဝါဆိုလဆုတ် ၂ ရက်နေ့၌ စတင် ပို့ချရေးသား၍ ၁၃၃၉ ခု ဝါခေါင်လဆန်း ၁၂ ရက်နေ့၌ ပို့ချရေးသားပြီးဆုံးသည်၊ တစ်နေ့ တစ် နာရီ ပို့ချ၏၊ ၃ နှစ် ၂၅ ရက် ကြာသည်၊ အဖိတ် ဥပုသ်နေ့များ စာဝါနားသဖြင့် ထိုရက်များကို နုတ်၍ တွက်နိုင်ပါသည်။

ဤပဉ္စပကရဏအဋ္ဌကထာဘာသာဋီကာကို ရေးရင်း ပို့ချစဉ်အချိန်မှာ သုတ္တန်ပိဋကတ် သုတ်မဟာဝဂ္ဂ အဋ္ဌကထာဘာသာဋီကာကိုလည်း ပို့ချရေးသားလျက် ဖြစ်၏၊ သုတ်မဟာဝါကို နေ့ ၁၂ နာရီမှ ၁ နာရီ ထိုးရန် ၁၀ မိနစ် အလိုအထိ ချလေ့ရှိသည်၊ ၁၀ မိနစ် ကျင်ငယ်အိမ် စသည် သွားပြီးလျှင် နေ့ ၁ နာရီမှ ၂ နာရီထိ ပဉ္စပကရဏအဋ္ဌကထာဘာသာဋီကာကို ပို့ချသည်။

ပဉ္စပကရဏကျမ်းစာများကို ဆရာတော် သက်တော်ထင်ရှားရှိစဉ် ပြီးနိုင်သမျှ ပြီးရန် စတင်ရိုက်နှိပ်ဖို့ လျှောက်ထားရာ ဖြည်းဖြည်း ရိုက်တာပေါ့ဟု အမိန့်ရှိပြီး ၎င်းကျမ်းစာများ မိမိမရှိသည့်နောက် ကျမ်းစာအုပ် ဖြစ်လာနိုင်တော့မည် မဟုတ်တော့ဟုပင် အမိန့်ရှိခဲ့ပါသည်၊ နိဒါန်းများကိုပင် ဆရာတော် ရေးသွားနိုင်ခဲ့ ခြင်း မရှိပါ။

ဓာတုကထာဘာသာဋီကာနှင့် ပုဂ္ဂလပညတ်ဘာသာဋီကာ ၎င်းဘာသာဋီကာ ၂ ခုတွင် အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက် လက်ရှိ နာယကချုပ် ဆရာတော်နှင့် သပြေကန် မဟာဓမ္မိကာရာမတိုက် ပရိတ်ကြီးနိဿယသစ် ဆရာတော် အရှင်ဝါသေဋ္ဌာဘိဝံသတို့က ကျမ်းနိဒါန်းနှင့် ဆရာတော်၏ ဘဝကိုပါ ကျမ်းဦးသိဖွယ်အဖြစ် ရေးသားထားတော်မူကြပါသည်၊ ဤနိဒါန်း ကျမ်းဦးသိဖွယ်များကိုလည်း စာဖတ်သူ များ လေ့လာသင့်ကြပါသည်။

## ကထာဝတ္ထုဘာသာဋီကာ

ဤဘာသာဋီကာမှာ သာသနာ့သမိုင်းတွင် အလွန်အရေးကြီးသောကဏ္ဍမှ ပါဝင်သော ပိဋကတ်ကျမ်းစာတစ်ဆူ ဖြစ်သဖြင့် ဆရာတော် နိဒါန်း မရေးခဲ့သော်လည်း သာသနာရေးဦးစီးဌာနအဖွဲ့မှ လက်ထောက်ညွှန်ကြားရေးမှူး ဦးထွန်းလှိုင်က စာဖတ်သူများ, သာသနာရေးစိတ်ဝင်စားသူများ, ဗုဒ္ဓသာသနာတော်မြတ် သန့်ရှင်းတည်တံ့ပြန့်ပွားရေးကိုပါ ကထာဝတ္ထုက မည်မျှ အထောက်အကူ ပြုပုံကို ဖော်ပြထားသည်မှာ ဗုဒ္ဓဘာသာဝင်များအဖို့ အလွန် နှစ်လိုဖွယ် ဖြစ်လှပါသည်။

ထိုကထာဝတ္ထုကျမ်းသည် မြန်မာပြန်ရန် ခက်ခဲသောကျမ်း ဖြစ်သဖြင့် နမူနာရရန် ဆရာတော်ကိုယ်တိုင် မြန်မာပြန်ပေးဖို့ရန် သက်ဆိုင်ရာများက လျှောက်ထားကြသဖြင့် နိဿယနှင့် မှတ်ချက်များ သာမက ပုဂ္ဂလကထာကို စာမျက်နှာ ၅၈၃ မှစ၍ ၆၅၆ တိုင်အောင် နမူနာအဖြစ် မြန်မာပြန်ပေးသွားပါသည်။

ဗုဒ္ဓသာသနာတော်ရေးကို စိတ်ဝင်စားသူ သူတော်ကောင်းများသည် သင်စာအဖြစ်ဖြင့် မကြည့်နိုင်သော်လည်း သာသနာတော်ရေးအတွက် ကြည့်စာအဖြစ်ဖြင့် ဆရာတော်၏ မှတ်ချက်များကို လေ့လာသင့်ပါသည်။

## ပဋ္ဌာနအဋ္ဌကထာဘာသာဋီကာ

၎င်းဘာသာဋီကာတွင် ထူးခြားချက်မှာ ဆရာတော်၏ အဘိဓမ္မာကျမ်းများကို စိတ်ဝင်စားသူများ လေ့လာနိုင်ရန် ဆရာတော် ရေးသား ထုတ်ဝေပြီးသမျှ အဘိဓမ္မာကျမ်းစာများကို နိဒါန်းတွင် ဖော်ပြပေးထားပါသည်၊ ဤသို့ ဖော်ပြပေးခြင်းမှာ ဆရာတော်၏ အဘိဓမ္မာကျမ်းပြုခြင်း၏ ရည်ရွယ်ချက်ကို အတိအကျ သိစေလို၍ ဖြစ်ပါသည်။

"တပည့်တော်တို့ ပရိယတ္တိသာသနာ့ဝန်ဆောင်များသည် တကယ့်ကို စိတ်ပါလက်ပါ ဆောင်နေရင်းပင် ပဋိပတ်သာသနာတော်ကိုလည်း ဆောင်လိုသောစိတ်များ ပြင်းပြလောက်အောင် တရားတော်က နှေ့စဉ် နှိုးဆော်၍ နေပါသောကြောင့် မကြာမီ ပဋိပတ္တိသာသနာ့ဝန်ဆောင်များလည်း ဖြစ်နိုင်ပါသည်၊ ထိုသို့ ဖြစ်နိုင်သည်အထိ ကြိုးစားမိလျှင်ကား ဂတိကောင်းဖို့မျှမက မဂ် ဖိုလ် နိဗ္ဗာန်သည်ပင် ဟတ္ထဂတ ဖြစ်နေပါလိမ့်မည်"။

ဤမှတ်ချက်ပင်လျှင် ဆရာတော်၏ ရည်ရွယ်ချက် တစ်စိတ်တစ်ဒေသကို သိနိုင်ပါသည်၊ ထို့ကြောင့် စာဖတ်သူတို့သည် ဆရာတော်၏ ကျမ်းစာများကို ဖတ်ကောင်းရုံ, သင်ကောင်းရုံသာဟု သဘောမထားဘဲ ဗုဒ္ဓသာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရန်အတွက် သဘောထား၍ လေ့လာစေလိုပါသည်၊ သို့မှသာ ဆရာတော်၏ ရည်ရွယ်တော်မူရင်းနှင့် ညီမည် ဖြစ်ပါသည်။

## ပဋ္ဌာနဘာသာဋီကာနိဂုံး

ဆရာတော်သည် မျက်မွေးရောင်ရောဂါကြောင့် ၂ ရက်ခန့်မျှ စာအုပ်မကြည့်ဘဲ စာချရ၏၊ ယခုတိုင်အောင် ပင်ကိုအတိုင်း မျက်လုံးမကောင်းသေး၊ ကျောင်းတိုက်အတွင်း၌လည်း သံဃာများ အသားဝါရောဂါများ ဖြစ်နေကြ၏၊ သို့ဖြစ်၍ ဤကျမ်းစာကို နိဂုံးချုပ်ချိန်မှာ အားလုံး သာယာသော အနေအားဖြင့် နိဂုံးမချုပ်နိုင်သည်ကို မှတ်တမ်းတင်လိုပါသည်ဟုပင် နောက်ဆုံးရေးသားတော်မူခဲ့ပါသည်။

## အဘိဓမ္မာလမ်းညွှန်မှတ်ဖွယ်

ဂျာမဏီသူ မဉမ္မာ-မဟာဂန္ဓာရုံတွင် လာနေစဉ် မဟာဝိဇ္ဇာစာမေးပွဲဖြေရန်နှင့် အဘိဓမ္မာ ဗဟုသုတ ရရန်အတွက် ဆရာတော်ကိုယ်တိုင် ရေးပေးတော်မူသော အဘိဓမ္မာလမ်းညွှန်မှတ်ဖွယ်စာမူမှာ စာအုပ် မရိုက်ဖြစ်သေး၍ စာမူကြမ်းပင် ရှိပါသေးသည်။

## သီလက္ခန်ဘာသာဋီကာ

**စာမျက်နှာ – ၆၃၁ (ပ–တွဲ)၊ ၅၇၈ (ဒု–တွဲ)၊ ၆၃၇ (တ–တွဲ)၊ ၄၆၄ (စ–တွဲ)။**
**စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၃၂ (ပ–တွဲ) (ဒု–တွဲ)၊ ၁၃၃၃ (တ–တွဲ) (စ–တွဲ)။**

ပိဋကတ် ၃ ပုံ အပါအဝင် သုတ် ၃ ကျမ်းတွင် ဤဘာသာဋီကာသည် သုတ်သီလက္ခန်, သုတ်မဟာဝါ, သုတ်ပါထေယျဟု ဒီဃနိကာယ် သုတ် ၃ ကျမ်းအနက်မှ ပထမဦးဆုံးကျမ်း ဖြစ်သည်။

သီလက္ခန်ဘာသာဋီကာကို ဆရာတော်သည် အဘိဓမ္မာအဋ္ဌသာလိနီဘာသာဋီကာကြီး ၄ တွဲနှင့် ဝိနည်းဘာသာဋီကာများ ရေးပြီးမှ ရေးသားတော်မူပါသည်။

သီလက္ခန်အဋ္ဌကထာကို ဋီကာဟောင်း ဋီကာသစ်များအနေဖြင့် ပါဠိ ဋီကာ အဖွင့်များ ရေးခဲ့ပြီး ရှိခဲ့ပါသည်၊ ထို ဋီကာဟောင်း ဋီကာသစ်များကို အခြေခံထား၍ ဆရာတော် အရှင်ဇနကာဘိဝံသသည် ယခုခေတ် မြန်မာနိုင်ငံတော် ပါဠိပိဋကတ် သင်ယူကြသူအများနှင့် သင့်တော်အောင် သီလက္ခန်ဘာသာ ဋီကာဟူသော အမည်ဖြင့် ထပ်မံ ရေးသားခြင်း ဖြစ်သည်။

ဆရာတော်၏ ဘာသာဋီကာများကို လေ့လာလျှင် ကျမ်းစာများ၏ အောက်ခြေမှတ်ချက်များသည် ကျမ်းစာ၏ အသက်ပင် ဖြစ်ပါသည်၊ စာမတတ်သူများပင် ကျမ်းစာ၏ အောက်မှတ်ချက်ကို ကြည့်ရှုရ ခြင်းဖြင့် ဉာဏ်ပွင့်လင်းလာပေသည်။

ယခုသီလက္ခန်ဘာသာဋီကာကျမ်းစာ၌ ဆရာတော် ရေးသားပုံနှင့် အခြားကျမ်းဆရာများရေးသားပုံ မတူသည့် အချက်ကို ဆရာတော်ကိုယ်တိုင် ရေးသားထားသည်ကို ဖော်ပြလိုပါသည်။

**ဥပမာ။** ။မိမိသည် ဤသီလက္ခန်အဋ္ဌကထာကို ၁၅ နှစ် ပြည့်ခါစဖြစ်သော ကျောင်းသားအရွယ် ငယ်စဉ်ကပင် မြောင်းမြဆရာတော်လောင်း သကျသီဟ ဓမ္မာစရိယအထံ၌ ကိုယ်တိုင် ဆိုဝါဖြင့် သင်ယူ ခဲ့ရပါသည်၊ ထို့နောက် ပခုက္ကူ မဟာဝိသုတာရာမတိုက်သို့ ရောက်စဉ်အခါ၌လည်း ထပ်၍ လေ့လာရုံမက သကျသီဟ ပရိယတ္တိစာမေးပွဲ မဝင်ခင်လည်းကောင်း, ဝင်ပြီးမှလည်းကောင်း ကိုယ်တိုင်ပင် ပို့ချခဲ့ပါသည်။

**အခက်ဆုံး။** ။ထိုမျှလောက် အထပ်ထပ် လေ့လာပြီး ဖြစ်ပါသော်လည်း ဤအဋ္ဌကထာ၏ ဘာသာ ဋီကာကို ပို့ချရင်း ရေးသားပြန်သောအခါ လွယ်မည့်အယောင်ဖြင့် ခက်ခဲသော အချက်များစွာကို တွေ့ရ ပါသည်၊ အဋ္ဌသာလိနီ အဋ္ဌကထာသည် အဘိဓမ္မာ ညဝါနှင့် သဘာဝဓမ္မ အခြေရပြီးသူတို့အတွက် ဤမျှလောက် မခက်လှပါ, မူလဋီကာအတွက်သာ ခက်ခဲပါသည်။

ဤအဋ္ဌကထာကား သဗ္ဗညုတဉာဏ်တော်၏ အာရုံဖြစ်နိုင်သော တိတ္ထိဆိုင်ရာ ဘာသာဝါဒကြောင့် ရှေ့ပိုင်းသုတ်များ၌ တစ်မျိုးပြီး တစ်မျိုး ရှုပ်ထွေးလာသဖြင့် ခက်ပြီးရင်း ခက်ရင်း ဖြစ်ရကား အခက်ဆုံး အဋ္ဌကထာဟု ဆိုလိုက်ပါသည်။

**ခက်မှ ဉာဏ်ထက်။** ။အခက်ဆုံးအာရုံသည် အထက်ဆုံးဉာဏ်၏ ကျက်စားရာဖြစ်သောကြောင့် ဤ အဋ္ဌကထာအဖွင့်ကို ရေးသားရာ၌ သတိ သမာဓိ စူးစိုက်စွာ အခြေအရံပါသော ထက်မြက်သော ဉာဏ်ကို မဖြစ်ဖြစ်အောင် ထူထောင်ရပါသည်၊ ထို့ကြောင့် ဤကျမ်းစာကို ပို့ချရေးသားချိန်ဝယ် မိမိ ဉာဏ်လည်း တိုးတက်၍ လာသကဲ့သို့ ထင်ရပါသည်။

**တောင့်တခြင်း။** ။မိမိမှာ ဉာဏ်တက်လာလေ, ဘုရားအာရုံ ထုံမိလေ ဖြစ်သောကြောင့် ဤကျမ်းစာကို လေ့လာသောပုဂ္ဂိုလ်များလည်း အလားတူ သတိ သမာဓိ ပညာ သဒ္ဓါတက်စေလိုသောကြောင့် ဘုရားရှင်ကို နေ့စဉ် နေ့စဉ် တွေ့မြင်ဖို့ ဘုရားရွှေနှုတ်တော်ထွက် ပါဠိတော် နိဿယကိုပါ နောက်ဆက်တွဲ စီစဉ်ထားပါသည်၊ ဗုဒ္ဓါနုဿတိဘာဝနာ အရသာပေါ်သည့်တိုင်အောင် လေ့လာနိုင်ကြပါစေသတည်း။

ဤကား ဆရာတော် ကိုယ်တော်တိုင် မိမိ၏ အတွေ့အကြုံကို ပွင့်လင်း ရိုးသားစွာ ရေးပြထားခြင်းကပင် သီလက္ခန်ဘာသာဋီကာကျမ်းစာ ၄ တွဲ၏ သဘောထားကို ခန့်မှန်းနိုင်လောက်ပါသည်၊ သို့သော် ထပ်မံလေ့လာနိုင်ရန် သုတ်အားလုံးအတွက် မှတ်ဖွယ်ဆိုသောရေးသားချက်ကို ထပ်မံတင်ပြလျှင် ဆရာတော်၏ ကျမ်းစာ များကို လေ့လာသူသည် ပို၍ သဘောပေါက် အားရနိုင်ဖွယ် ရှိပါသဖြင့် ဆက်လက်ဖော်ပြပါမည်။

## သုတ်အားလုံးအတွက်မှတ်ဖွယ်

**အရှိန်ဒါန်း။** ။မိမိတို့၏ ငယ်စဉ်အခါဝယ် မူလတန်းသဒ္ဒါမှ စ၍ သဒ္ဒါ, သင်္ဂြိုဟ် စသော အခြေခံကျမ်းစာငယ်များကို သင်ယူခြင်းသည် ပိဋကတ်တော်တည်းဟူသော မဟာသမုဒ္ဒရာသို့ သက်ဝင်နိုင်ဖို့ရန် လှေတက်များကို ပြင်ဆင်နေကြခြင်းနှင့် တူ၏၊ ထိုလှေတက်များကို ပြင်ဆင်နေရင်းပင် ဓမ္မပဒ, အင်္ဂုတ္တိုရ်, ဝိနည်းပါဠိတော်များကို သင်ယူလေ့လာခြင်းသည် လှေငယ်ဖြင့် သမုဒ္ဒရာကမ်းစပ်ဝယ် အကူးသင်ခြင်းနှင့် တူ၏၊ ထိုသို့ အကူးသင်၍ အတော်တတ်မြောက်သောအခါ အထက်တန်းဖြစ်သော ပိဋကတ်ပါဠိတော်တို့ကို သင်ယူခြင်းသည် မဟာသမုဒ္ဒရာသို့ သက်ဝင်ကာ အဖိုးတန်ရတနာများကို ထုတ်ယူခြင်းနှင့် တူ၏။

**ဆက်ဦးအံ့။** ။ပုလဲစသော အဖိုးတန်ရတနာများသည် မဟာသမုဒ္ဒရာဝယ် အများအပြား ရှိ၏၊ ထို့အတူ ပိဋကပါဠိတော်၌လည်း သီလ သမာဓိ ပညာစသော အဖိုးတန် ရတနာများကို အပြည့်အဝ တွေ့နိုင်၏၊ မဂ်ဖိုလ်နိဗ္ဗာန်ရတနာများကိုလည်း တွေ့နိုင်၏၊ မိမိနှင့်တကွ စာသင်သူ စာသင်သားဟူသမျှသည် ထိုအဖိုးတန်ရတနာများကို တွေ့ဖို့, တွေ့သောအခါ ကောက်ယူသုံးစွဲဖို့ရန် အခြေခံလှေတက်များကို ပြင်ဆင်ခဲ့ကြခြင်း ဖြစ်ရကား အဖိုးတန် ရတနာတို့ကို တိုက်ရိုက်တွေ့နိုင်သော ပါဠိတော်ကို ကျကျနန မသင်ယူဘဲ ပါဠိတော်ကို ကြိုးကြားကြိုးကြား ဖွင့်သော အဋ္ဌကထာ ဋီကာများကိုသာ သင်ယူလျှင် မူလရည်ရွယ်ရင်းအကျိုးကို ဘယ်နည်းမျိုးနှင့်မျှ မရနိုင်သည်မှာ ဧကန်ပင် ဖြစ်ပါသည်။

မှန်၏၊ အဋ္ဌကထာသည် ထိုပါဠိတော်၏ ခက်ခဲရာဌာန၌သာ အနက်အဓိပ္ပာယ်မှန်ကို သိနိုင်ဖို့ရန် စည်းကမ်းညွှန်ရုံသာ ဖြစ်၏၊ ဋီကာတို့ကား ထိုအဋ္ဌကထာ၏ အကူအညီသာ ဖြစ်ကြ၏၊ ထို့ကြောင့် ပါဠိတော်ကို အရင်းခံထား၍ မသင်ယူကြဘဲ အဋ္ဌကထာကိုသာ အရင်းခံထား၍ သင်ယူကြသောနည်းသည် မဟာသမုဒ္ဒရာဝယ် ရတနာများစွာကို ရယူဖို့ရန် လှေတက်ပြင်ဆင်မှုဟူသော မူလရည်ရွယ်ချက်နှင့် ဖြောင့်ဖြောင့်ဆန့်ကျင်ဘက်သာ ဖြစ်နေတော့၏၊ ထိုသို့ ဖြစ်နေသောကြောင့် အဋ္ဌကထာ ဋီကာကြီးများကို ပေါက်ရောက်ပြီး ဖြစ်ပါလျက် သဒ္ဓါတရား မတိုးတက်ဘဲ သာသနာတော်ကိုပင် စွန့်ခွာရက်သူများကိုပါ တွေ့ရသည်၊ ထို့ကြောင့် ပါဠိတော်ကို အလေးဂရုပြုကာ မူထား၍ အဋ္ဌကထာကို တွဲဖက်အနေဖြင့် ပို့ချဖို့ရန် ဤသီလက္ခန်ဘာသာဋီကာဝယ် ရိုက်နှိပ်ပြီး ဘာသာဋီကာနှင့်ဆိုင်သော ပါဠိတော်နိဿယကိုလည်း ထည့်သွင်းရပါသည်၊ ဆရာတော်သည် ဤမျှနှင့် အားမရသေး၊ ကျမ်းစာလေ့လာသူသည် မိမိတို့ ရသင့်ရထိုက်သော အသိဉာဏ်ပညာ အခွင့်အရေးကို အပြည့်အစုံ ရစေခြင်းငှာ ပါဠိတော်ကြီးများကို နိဿယနှင့် မြန်မာပြန် ဆိုနည်းကိုပါ မိမိစွမ်းနိုင်သမျှ ညွှန်ကြားသွားတော်မူပုံကိုလည်း အောက်ပါ ညွှန်ကြားချက်ကို သတိပြုသင့်ပါသည်။

## နိဿယနှင့်မြန်မာပြန်

သုတ္တန်ပါဠိတော်များကို နိဿယအနက်ပေးရာ၌

၁။ ပထမသော် "ပါဠိတစ်ချက် အနက်တစ်ချက်" (ထုံးစံအတိုင်း) ပေးသင့်ပါသည်၊

၂။ ပါဠိတစ်ချက် အနက်တစ်ချက်ကို ကောင်းစွာ ကျွမ်းကျင်သော စာသင်သားတို့အား ထိုနည်းကို အသုံးမပြုတော့ဘဲ မြန်မာပြန်သက်သက်ကို ပါဠိရှိသလောက် မချွင်းမချန်ဘဲ ပြန်ဆိုစေသင့်ပါသည်။

၃။ ထိုမြန်မာပြန်ကို ကောင်းစွာ ပြန်နိုင်သော စာသင်သားတို့ကိုမူ ပါဠိရှိသလောက် မြန်မာမပြန်စေဘဲ တချို့ပါဠိကို ချန်၍ မြန်မာစကားပြေ ချောမောအောင် ပြန်စေသင့်ပါသည်။

၄။ မြန်မာစကားပြေ ချောမောစေနိုင်သောအခါ ထိုပါဠိတော်မှ လိုရင်းအဓိပ္ပာယ်များကိုသာ ယူ၍ မိမိ ဉာဏ်ရှိသလို ချုံ့သင့်ရာကို ချုံ့၊ ချဲ့သင့်ရာကို ချဲ့သောအားဖြင့် (အလင်္ကာရနည်းအရ) ဩဇဂုဏ်ရှိသော အရေးအသားကို လေ့လာစေသင့်ပါသည်။

၅။ ထိုမျှလောက် မြန်မာပြန်နိုင်သော စာသင်သားတို့အား ပါဠိတော်၌ ခက်ဆစ်အချို့ကိုသာ ပြောပြ၍ များစွာသော ပါဠိတော်များကို သံနေသံထားမှန်မှန်ဖြင့် ရွတ်ဖတ်ရုံသာ ရွတ်ဖတ်စေသင့်ပါသည်။

၆။ ထိုသို့ ရွတ်ဖတ်ရင်းပင် များစွာသော ပါဠိတော်လာ ပုဒ်ပါဠိများသည် နှုတ်တက်မည်ဖြစ်သောကြောင့် ပါဠိအစီအကုံးလည်း ကောင်းမွန်၍ ပါဠိစကားအပြောလည်း စနစ်တကျ ကျွမ်းကျင်လာပါလိမ့်မည်။

၇။ ထိုသို့ အခြေအနေကောင်းကို ရသောအခါ ကျမ်းစာရေးသားမှု၌ ကျွမ်းကျင်ရုံသာမက ဗုဒ္ဓါနုဿတိ စသော ဘာဝနာများ အလိုလို ပေါက်ဖွား၍ ကြီးမားသော ပညာ ဝီရိယတွေ ဖြစ်ပေါ်နေပါလိမ့်မည်။

၈။ သုတ္တန်ပိဋကတ် ပါဠိတော်မြတ်ကြီးများသည် ၃ နံပါတ်နည်းအတိုင်း မြန်မာပြန်ပြီး ဖြစ်လျှင် မြန်မာ လူမျိုးများအတွက် အလွန်အကျိုးများသော ဖတ်စာ ကြည့်စာ တရားတော်များ ဖြစ်ရုံမက စစ်မှန်သော သာသနာတော်ကိုလည်း ပြုပြင်နိုင်သော ဆရာသမား ဒါယကာများဖြစ်ကာ သာသနာ့ အဆီအနှစ်ကို ခံစားနိုင်ပါလိမ့်သတည်း။

ဤကဲ့သို့ ဆရာတော် ညွှန်ကြားတော်မူသော စေတနာမှာ သာမန် သဘောထား၍ မရပါ၊ ဆရာတော်ကိုယ်တိုင် သီလက္ခန်ဘာသာဋီကာ စတုတ္ထတွဲနိဂုံးတွင် ရေးသားသော အောက်ပါစာကို ဖတ်ကြည့်တော်မူက သိနိုင်ပါမည်။

"ဤသီလက္ခန်အဋ္ဌကထာကို အကြိမ်တော်တော်များအောင် မိမိကိုယ်တိုင်လည်း ပို့ချပြီးပါပြီ၊ ထိုမျှလောက် အလေ့အကျက်များပါသော်လည်း ဘာသာဋီကာကျမ်းစာတစ်စောင် ဖြစ်ရအောင် ကြိုးစားသောအခါ လွယ်လွယ်ကူကူဖြင့် ပြီးစေရသော သုတ်တော်ဟူ၍ တစ်သုတ်မျှ မပါဘဲ ခဲခဲခက်ခက်ကြီး ကြိုးစားရပါသည်၊ ဤသို့အားဖြင့် နံနက်ပိုင်း အချိန်ဝယ် အခြား အခြား စာဝါများကို ပို့ချတိုင်း နေ့လယ် အချိန်၌ ပါဠိတော်နှင့်တွဲ၍ ဤကျမ်းစာကို ပို့ချလာခဲ့ရာ သုံးနှစ်ခန့် ကြိုးစားမှ ဆုံးခန်းတိုင်ရောက် ပြီးမြောက်စေနိုင်ပါသည်။"

**ရည်ရွယ်ချက်**။ ။ထိုမျှလောက် ကြိုးစားခြင်း၏ ရည်ရွယ်ရင်းမှာ နောင်လာနောက်သားတို့ လွယ်ကူစွာ သိရစ်ကြဖို့နှင့် မိမိအတွက် ပညာပါရမီ အဆီအနှစ် အမြုတေ ဖြစ်ဖို့ပင် ဖြစ်ပါသည်။

ဤရေးသားချက်ကို ကြည့်၍ပင် ယနေ့ ဆရာတော်၏ ကျမ်းစာများ မည်မျှ အောင်မြင်သည်ကို ကျမ်းစာအသုံးပြုနေကြသော ရဟန်း ရှင် လူများ ခန့်မှန်းနိုင်ကြပါသည်။

ဒီဃနိကာယ်-သီလက္ခန်ပါဠိတော်, သုတ်မဟာဝါပါဠိတော်, သုတ်ပါထေယျပါဠိတော်, အဋ္ဌကထာများသည် ရတနာသုံးပါးကို ကြည်ညိုဖွယ် အမြင့်ဆုံးနိကာယ်ဟု ညွှန်ကြားတော်မူပါသည်။

သီလက္ခန်ဘာသာဋီကာတွင် ပါဝင်သော အဦးအစဆုံး ဖြစ်သော ဗြဟ္မဇာလသုတ်ကို ပါဠိတတ်သူတော်တော်များများပင် အဓိပ္ပာယ်ပေါက်အောင် နားလည်ခွင့် မရကြသဖြင့် မြန်မာပြန်သောအခါလည်း မြန်မာလိုတတ်သူများအတွက် သဘောပေါက်အောင် နားလည်ခွင့် မရကြပါ၊ တိတ္ထိဝါဒများကို အသေးစိတ်ဟောသော သုတ္တန်ကြီးဖြစ်သဖြင့် ရှင်းလင်းစွာ မသိနိုင်ပါ၊ စာရေးသူကိုယ်တိုင်က "အသိရှင်းမှသာ အရေးရှင်းနိုင်ပါသည်"၊ ထို ဗြဟ္မဇာလသုတ်နှင့် သာမညဖလသုတ္တန်ကြီး ၂ ခုကိုလည်း ဆရာတော်ကိုယ်တိုင် နမူနာရစေရန် မြန်မာဘာသာ ပြန်ပေးသွားတော်မူခဲ့ပါသည်။

သီလက္ခန်ဘာသာဋီကာ ပ-တွဲတွင် ဗြဟ္မဇာလသုတ် မဟာသီလအထိ အဖွင့် ပါဠိတော်နိဿယများ ပါဝင်သည်။

သီလက္ခန်ဘာသာဋီကာ ဒု-တွဲတွင် သုညတပကာသနအဖွင့်မှ ဣန္ဒြိယသံဝရကထာအဖွင့်အထိ ပါဝင်သည်။

သီလက္ခန်ဘာသာဋီကာ တ-တွဲတွင် ပါဠိတော်နိဿယပါ ၆၃၇-သာမညဖလသုတ် သတိသမ္ပဇည ကထာအဖွင့်မှ သောဏဒဏ္ဍသုတ် အပြီးအထိ ပါဝင်သည်။

သီလက္ခန်ဘာသာဋီကာ စ-တွဲတွင် ဘာသာဋီကာနှင့် ပါဠိတော်နိဿယများပါ အဆုံးအထိ ပါဝင်ပါသည်။

## ဗြဟ္မဇာလသုတ်မြန်မာပြန်

**စာမျက်နှာ – ၉၄ + ၃။**
**စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၁၀။**

"သဗ္ဗညုတ ဉာဏ်မြတ်ပညာ ကွန်ရက်ဇာ" အစရှိသော ဤဗြဟ္မဇာလသုတ်တော်ကို တောင်မြို့ ဆရာတော်သည် မြန်မာဘာသာသက်သက်ဖြင့် အဓိပ္ပာယ်ဖော်၍ ရေးသားထားသည်၊ ဤသုတ္တန်ဒေသနာတော်ကို လေ့လာခြင်းဖြင့် ဗုဒ္ဓမြတ်စွာ မပွင့်မီနှင့် ပွင့်ချိန်တွင် ပျံ့နှံ့နေနှင့်သော ၆၂ ပါးသော မိစ္ဆာအယူဝါဒ သဿတဒိဋ္ဌိ ဥစ္ဆေဒဒိဋ္ဌိ အမျိုးမျိုးကို သိရှိရသည်။

အယူဝါဒများများကို ဟောတော်မူရာ၌ ဗုဒ္ဓမြတ်စွာသည် ယင်းမိစ္ဆာအယူများ ဖြစ်ပေါ်လာပုံအကြောင်းရင်းကိုလည်း ရှင်းလင်း ဟောပြထားသည်၊ ဤသုတ္တန်ကို လေ့လာခြင်းဖြင့် သဗ္ဗညုတဉာဏ်တော်၏ ကြီးမားမြင့်မြတ်ပုံကို အာရုံပြုနိုင်ပေသည်၊ သဗ္ဗညုတဉာဏ်တော်ကြီးကို မှန်းဆကြည်ညို သဒ္ဓါစိတ်ပွားကာ ဗုဒ္ဓါနုဿတိဘာဝနာလည်း ဖြစ်နိုင်ပေသည်။

ဤကျမ်းစာကို ဆရာတော်ရေးသားခြင်းမှာ သင်္ဂါယနာမတင်မီ ဝိုင်အမ်ဘီအေမှ ပိဋကတ်တော်မြန်မာပြန်ရန်အတွက် နမူနာရရန် ရေးသားပေးခြင်း ဖြစ်သည်၊ သာသနာနှစ် ၂၃၅ ခုနှစ် မြန်မာပြည်တွင် သာသနာ့အုတ်မြစ် ချခဲ့သော သုတ်တော်မြတ်ကြီးလည်း ဖြစ်ပေသည်၊ မြန်မာလူမျိုးတိုင်း သိသင့်သည်။

## သာမညဖလသုတ်မြန်မာပြန်

**စာမျက်နှာ - ၁၀၂ + ၃။**
**စတင်ရိုက်နှိပ်သောခုနှစ် - ၁၃၁၃။**

ဘုရားကျောင်းဒါယကာ ခမည်းတော် ဗိမ္ဗိသာရမင်းကို လုပ်ကြံ သတ်ဖြတ်စေခဲ့သော အဇာတသတ်မင်းသည် မိမိ၏ အပြစ်ကို စဉ်းစားမိတိုင်း စားမဝင် အိပ်မပျော် ဖြစ်နေရာ စိတ်သက်သာရာ ရစေခြင်းငှာ မြတ်စွာဘုရားထံ ချဉ်းကပ်၍ မေးလျှောက်ရာမှ ပေါ်ပေါက်လာသော သုတ္တန်ဒေသနာတော် ဖြစ်သည်၊ ဆရာတော်ကြီး အရှင်ဇနကာဘိဝံသသည် ပါဠိမဖက် မြန်မာသက်သက်ဖြင့် ပြန်ဆိုရေးသားထားသည်။

ဤသုတ်တော်ကို ကြည့်ရှုလျှင် "ဘုရားအလိုတော်ကျ ရဟန်းတော်များဆိုတာ ဤလို သီတင်းသုံးရမှာပါတကား၊ သာသနာပြု ဒါယကာ ဒါယိကာမဆိုတာ ဤလို သံဃာတော်များကို အားပေး ပြုစုရမှာပါတကား၊ ဤသို့ ပြုပြင်ထားသော သာသနာတော်ကို ဘယ်သူမဆို ကြည်ညိုလေးစား အားထားကိုးကွယ်နိုင်မှာပါတကားဟု သာသနာရေး ဘာသာရေးစိတ်ဓာတ်တွေ အလိုလို မြင့်မြတ်သန့်ရှင်းလာပေလိမ့်မည်" ဟု ဆရာတော်ကြီးက မျှော်လင့်ချက် ထားခဲ့သည်၊ ရှင်လူအားလုံး ကောင်းစွာ သိရှိထားထိုက်သော သုတ်တော် ဖြစ်သည်။

ဤသုတ်သည်လည်း ဝိုင်အမ်ဘီအေအတွက် နမူနာအဖြစ် ရေးသားပေးခြင်း ဖြစ်ပါသည်။

## သုတ်မဟာဝါဘာသာဋီကာ

**စာမျက်နှာ - ၄၉၆ (ပ-တွဲ)၊ ၄၈၄ (ဒု-တွဲ)၊ ၈၁၉ (တ-တွဲ)။**
**စတင်ရိုက်နှိပ်သောခုနှစ် - ၁၃၄၂ (ပ-တွဲ) (ဒု-တွဲ)၊ ၁၃၄၃ (တ-တွဲ)။**

ဤကျမ်းသည် သုတ် ၃ ကျမ်း (သို့မဟုတ်) ဒီဃနိကာယ ၃ ကျမ်းရှိရာတွင် ဒုတိယမြောက်ကျမ်း ဖြစ်၏၊ မဟာဝဂ္ဂပါဠိတော်မှာ ဝိနည်း သုတ္တန် ၂ မျိုး ရှိသည်၊ ဤ၌ သုတ္တန်ဖြစ်သောကြောင့် "သုတ်မဟာဝါ" ဟု ခေါ်၏၊ ယင်းကို ဖွင့်သောဋီကာဖြစ်၍ "သုတ်မဟာဝါဘာသာဋီကာ"ဟု ဆရာတော်က အမည်ပေးထားသည်။

ဤဘာသာဋီကာ၌လည်း လေ့လာမှတ်သားဖွယ် စိတ်ဝင်စားဖွယ်တွေ အပြည့်ပါရှိ၏၊ ဤအဋ္ဌကထာ၏ အစပိုင်း မဟာပဒါနသုတ် အဖွင့်၌ပင် ပုဗ္ဗေနိဝါသာနုဿတိနှင့် စပ်၍ ရှေ့ဘဝတွေကို ပြန်ပြောင်း မြင်နိုင်ပုံ၊ ဗုဒ္ဓနှင့် ဗုဒ္ဓသာဝကတို့သာမက တိတ္ထိတို့ပါ မြင်နိုင်ပုံ၊ သို့သော် ကံ ကံ၏အကျိုးကို ယုံကြည်သော တိတ္ထိတို့သာ မြင်နိုင်ပုံတို့ကို ဖော်ပြထားသည်။

သို့ဖြစ်၍ ယခုခေတ်ကာလ၌ ရှေးဘဝအကြောင်းကို ပြန်လည် ပြောပြနိုင်သော ပုဂ္ဂိုလ်တို့ရှိရာ ဤသဘောသွားများ ဖြစ်နိုင်ကြောင်း ယုံမှားသံသယ မရှိသင့်တော့ချေ။

ထို့ပြင် ၃၂ ပါးသော ယောကျ်ားမြတ်တို့ လက္ခဏာ, စကြာရတနာအကြောင်း, ပဋိစ္စသမုပ္ပာဒ် အဖွင့်တို့ကိုလည်း ကျယ်ကျယ်ပြန့်ပြန့် တွေ့ရှိနိုင်မည်ဖြစ်သည်၊ ထိုမှတစ်ပါး ဥဃ္ဃဋိတညူ, ဝိပဉ္စိတညူ, နေယျ, ပဒပရမ ပုဂ္ဂိုလ် ၄ ပါးတို့၏ သဘောသွားကိုလည်း အားတက်ဖွယ်ရာ အတုယူနိုင်ဖို့ အခွင့်ပေါ်လာသည်။

သုတ်မဟာဝါ ပါဠိတော်တွင် သုတ်ပေါင်း ၁၀ သုတ် ပါဝင်၍ ထိုသုတ္တန်ကြီးများကို ဆရာတော်သည် စာပို့ချရင်း လူအများအတွက် အကျိုးရှိရန် မဟာပရိနိဗ္ဗာနသုတ်မှ "နောက်ဆုံးဆယ်လ မြတ်ဗုဒ္ဓ"အမည်ဖြင့် စာတစ်အုပ် ရေးတော်မူခဲ့ပါသေးသည်၊ ထိုကျမ်းစာတွင် ဗုဒ္ဓဘာသာဝင် အများစုအတွက် သိဖွယ်ကောင်းသော မဟာသုဒဿနသုတ္တန်ကြီးကိုလည်း မြန်မာပြန်ပေးသွားခဲ့ပါသည်။

ပရိတ်ကြီးနိဿယသစ်ကျမ်းကြီးကို ရေးသားတော်မူသော သပြေကန်ဆရာတော် (အဂ္ဂမဟာပဏ္ဍိတ) အရှင်ဝါသေဋ္ဌာဘိဝံသသည် တစ်ချိန်က ထိုမဟာသုဒဿနသုတ္တန် မြန်မာပြန်ကို ကျနအောင် ဖတ်ကြည့်ရန် တိုက်တွန်းခဲ့ဖူးပါသည်။

ဘာသာပြန်ဆိုသူမှာ မည်သည့်ဘာသာနှင့် ပြန်သည်ဖြစ်စေ မဟာဂန္ဓာရုံဆရာတော် ပြန်ဆိုတော်မူသကဲ့သို့ ပါဠိတော်၏ အဓိပ္ပာယ်ကို မြန်မာလို အဓိပ္ပာယ် တိကျချောမွေ့အောင် ပြန်ဆိုဖို့လိုကြောင်း, မဟာသုဒဿနသုတ်ကို မြန်မာပြန်ဆိုထားသည်မှာ သေသပ်ကျန၍ အဓိပ္ပာယ်ကိုလည်း မြန်မာစာဖတ်ပရိသတ် ကျနအောင် နားလည်ခွင့်ရကြောင်း မိန့်တော်မူခဲ့ပါသည်။

မဟာဂန္ဓာရုံဆရာတော်သည် သုတ်မဟာဝါဘာသာဋီကာကို ရေးသားရာ၌ ပင်ကိုရည်ရွယ်တော်မူရင်းအတိုင်း ပိဋကတ်တော်ကို အသိလွယ်ဖို့နှင့် ဂုဏ်ပို့ချသင်ကြားသော ပိဋကတ်တော်သည် ကိုယ်ကျင့်တရားဖြစ်ဖို့ အထူးရည်ရွယ်တော်မူပါသည်၊ ဤသည်ပင်လျှင် ဆရာတော် ရေးသားသော ကျမ်းစာများအတွက် ထူးခြားချက် ဖြစ်ပါသည်။

## အဓိကရည်မှန်းချက်ပန်းတိုင်

သုတ်မဟာဝါဘာသာဋီကာတွင် သာသနာတော်၌ အလွန်ထင်ရှားသော သတိပဋ္ဌာန်သုတ္တန်, မဟာနိဒါန (ပဋိစ္စသမုပ္ပာဒ) သုတ္တန်ကြီးများ ပါဝင်ခဲ့ရာ စာပို့ချ သင်ယူရာ၌ လွယ်ကူအောင်သာ ရည်ရွယ်သည် မဟုတ်၊ ကျင့်သုံးဆောက်တည်နိုင်အောင် အထူး ရည်ရွယ်တော်မူပါသည်။

၁။ ဗုဒ္ဓမြတ်စွာ၏ သာသနာကို မြတ်နိုးသည်ဆိုသူ မှန်သမျှသည် စိတ်ကောင်းရှိရန်၊

၂။ ဗုဒ္ဓမြတ်စွာ၏ တပည့်သားတော်ဟု ခံယူထားသူ ရဟန်းရှင်လူ မည်သူမဆို လူအများ ကြည်ညိုခံနိုင်လောက်အောင် ကိုယ်ကျင့်တရား ပြည့်စုံရန်၊

၃။ ဗုဒ္ဓ၏ စာပေကို သင်ယူရာတွင် ကိုယ်ကျင့်ကို ဦးထား၍ ပါဠိတော်များကို အဓိပ္ပာယ်အဖွင့်နှင့် တကွ အခြေကျကျ နားလည်သဘောပေါက်ရန်၊

၄။ ပိဋကတ်ကို သင်ယူသော ရဟန်းတော်များသည် လူအများထက် အသိဉာဏ် ကိုယ်ကျင့် ပြည့်စုံပြီး လူအများကို ဦးဆောင်နိုင်သော အရည်အချင်းရှိရန်။

၅။ ပိဋကတ်တော်များ သင်ကြားတတ်မြောက်မှု မပြည့်စုံမီကပင် ဝိနည်းကိုယ်ကျင့် ပြည့်စုံ၍ စာပေတတ်မြောက် ပြည့်စုံသောအခါ လူအများ၏ ဦးဆောင်မှုကို ပေးနိုင်ရန် ရည်ရွယ်၍ ကျမ်းစာများကို ပြုစုတော်မူပါသည်။

ထို့ကြောင့် သုတ်မဟာဝါဘာသာဋီကာကို လေ့လာ ပို့ချ သင်ကြားသူမှန်သမျှ ရဟန်းရှင်လူများသည် ဆရာတော်၏ ရည်ရွယ်တော်မူရင်း ဆန္ဒတော်နှင့် ညီ မညီ လေ့လာသောအခါ တွေ့ကြုံသိရှိနိုင်ကြပါလိမ့်မည်။

သုတ်မဟာဝါဘာသာဋီကာ ပထမတွဲတွင် နိဒါနသုတ်အဖွင့်နှင့် ပါဠိတော်နိဿယများပါ ပါဝင်သည်။

ဒုတိယတွဲတွင် မဟာပရိနိဗ္ဗာနသုတ် ဓာတုထူပပူဇာအထိ အဖွင့်နှင့် ပါဠိတော်နိဿယ ပါဝင်သည်။

တတိယတွဲတွင် ပါရာသိသုတ်အထိ အဖွင့်နှင့် ပါဠိတော်နိဿယ ပါဝင်သည်။

## သုတ်ပါထေယျဘာသာဋီကာ

ဤကျမ်းသည် သုတ် ၃ ကျမ်းရှိရာတွင် တတိယမြောက်ကျမ်း ဖြစ်၏၊ မူရင်းနာမည်မှာ "ပါထိက"ဟု ရှိသော်လည်း "ပါထေယျ"ဟုပင် အခေါ်များကြသည်။

ဤဘာသာဋီကာကား ဆရာတော် အရှင်ဇနကာဘိဝံသအနေဖြင့် နောက်ဆုံး မွေးဖွားပေးခဲ့သော "အနှောင်းဆုံးသားကလေး"ဟု ဆိုရမည်ကဲ့သို့ ဖြစ်တော့၏၊ ၎င်းဘာသာဋီကာကို ယခုအခါ မဟာဂန္ဓာရုံ ကျောင်းတိုက် နာယကချုပ်ဆရာတော် ဦးစန္ဒောဘာသက ဆရာတော်ဘုရားကြီး ရှေးက ပို့ချဖူးသည့် မူအတိုင်း ပြန်လည် ပို့ချရေးသားပြီး ရိုက်ရန်သာ ကျန်ပါတော့သည်၊ မကြာမီ ရိုက်နှိပ်တော့မည် ဖြစ်ပါကြောင်း။

## အဋ္ဌကထာအခြေပြု

**စာမျက်နှာ – ၃၆၈။**

**စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၄၀။**

ပရိယတ္တိစာပေနယ်ပယ်၌ စာပေတတ်မြောက်ခြင်း အင်္ဂါလက္ခဏာကို ပြောပြရမည်ဆိုလျှင်...

၁။ ပါဠိဘာသာဖြင့် တည်ရှိသည့် ဗုဒ္ဓစာပေများကို အနက် မြန်မာ ပြန်ဆိုနိုင်ခြင်း၊

၂။ သဘောအဓိပ္ပာယ် နားလည်ခြင်း၊

၃။ အခြားသူများကို သင်ပြပေးနိုင်ခြင်း၊

၄။ စာပေဖြင့် ရေးသားပြုစုနိုင်ခြင်း၊

၅။ တတ်သိ မှတ်မိမှုများခြင်း ဟူ၍ အချက်ငါးပါး ရှိရမည်ဖြစ်ကြောင်း ဆရာစဉ်ဆက် မိန့်ကြားတော်မူခဲ့ကြသည်၊ ယင်းသို့ စာပေတတ်မြောက်သည့် ပုဂ္ဂိုလ်ဖြစ်ရန် မိမိကိုယ်တိုင် စာသင်သားအဖြစ် ခံယူကာ အခြေခံစာများကို ဆရာထံ၌ သင်ယူလေ့လာ ဆည်းပူးရသည်။

ပါဠိတော် အဋ္ဌကထာ ဋီကာ အစုံနှင့် အထွေထွေ စာပေကျမ်းဂန်များကို လေ့လာဆည်းပူးရသည်၊ မိမိဘာသာ လေ့လာဖတ်ရှုရသည်၊ ထို့နောက် စာချဆရာတော်အဖြစ် တပည့်များအား အခြေခံကျမ်းစာ များကို သင်ကြား ပို့ချပေးရသည်၊ ယင်းသို့ လေ့လာနိုင်ရေး၊ တပည့်များအား ပို့ချပေးနိုင်ရေးအတွက် နည်းပေးသည့် နည်းပြကျမ်းဟူ၍ ရှေးက သတ်သတ်မှတ်မှတ် မရှိခဲ့ပေ၊ တစုတဝေးတည်း တစ်ကျမ်း တစ်ဖွဲ့တည်း မရှိခဲ့ချေ၊ ပရိယတ္တိစာပေနယ်ပယ်၌ လိုအပ်လျက် ရှိသည်။

ယင်းလိုအပ်နေသည့် ကွက်လပ်ကို တောင်မြို့ မဟာဂန္ဓာရုံစာသင်တိုက်ကြီး၏ ဦးစီးနာယက အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်ဇနကာဘိဝံသက ဤအဋ္ဌကထာအခြေပြုကျမ်းဖြင့် ဖြည့်စွက်တော်မူလိုက် ပေသည်။

ကျမ်းပြုဆရာတော်သည် မိမိကိုယ်တိုင်က ပဋိသန္ဓေပါ ဉာဏ်ပဋိဘာန်နှင့် ပြည့်စုံတော်မူခဲ့သည်၊ အခြေခံစာပေ အထက်တန်းစာပေများကို ဆရာကောင်း သမားကောင်းများနှင့် လေ့လာဆည်းပူးခွင့် ရရှိတော်မူခဲ့သည်၊ အခြေခံစာပေ အထက်တန်းစာပေများကို တပည့်ပေါင်းများစွာကို တတ်မြောက် ကျွမ်းကျင်စေရန် သင်ကြားပို့ချပေးတော်မူခဲ့သည်၊ အလွယ်ဆုံး အရှင်းဆုံးနည်းများကို အသုံးပြုကာ အခြေခံ စာပေ အထက်တန်းစာပေ အဖွင့်ကျမ်းပေါင်းများစွာကို ရေးသားပြုစုတော်မူခဲ့သည်။

ယင်းသို့ အစစ ပြည့်စုံအောင်မြင်မှု ရရှိတော်မူခဲ့ပြီးမှ ဤ အဋ္ဌကထာအခြေပြုကျမ်းကို ရေးသား ပြုစုတော်မူခြင်း ဖြစ်ပေရာ ဤအဋ္ဌကထာအခြေပြုကျမ်းသည် မည်မျှ ထိထိရောက်ရောက် လေ့လာ ဖတ်ရှုသူတို့အား ကျေးဇူးပြုနိုင်မည် ဖြစ်သည်ကို ကျမ်းစာအုပ်က သက်သေခံမည် ဖြစ်ပါသည်။

ဤကျမ်းတွင် အဋ္ဌကထာ ဋီကာ စာကြီး ပေကြီးများကို လေ့လာရာတွင် အခြေရစေနိုင်ရန်...

ဝါကျခွဲနည်းများ,
အနက်ပေးနည်းများ,
ပုဒ်ခွဲနည်းများ,
ဝိဂြိုဟ်ဆိုနည်းများ,
စာစပ်နည်းများ,
အတ္ထုဒ္ဓါရထုတ်နည်းများ,
အတ္ထုဒ္ဓေသညွှန်းနည်းများ,
အဓိပ္ပာယ်ကောက်ယူနည်းများ,
အဋ္ဌကထာ၏ ဆိုလိုရင်း အာဘော်ဖော်နည်းများ

စသည်ဖြင့် စာပေကို အထက်တန်းကျကျ တတ်မြောက်စေနိုင်သည့် နည်းပေါင်းများစွာကို ပါဠိဂါထာ နိယံဆောင်ပုဒ်များ, မြန်မာလင်္ကာနိယံဆောင်ပုဒ်များဖြင့် တန်ဆာဆင် မွမ်းမံကာ ဓမ္မပဒအဋ္ဌကထာကို မူထားပြီး အခြား အဋ္ဌကထာကျမ်းကြီး ဋီကာကြီးများ၏ အဆိုအမိန့်များနှင့် တွဲဖက်၍ ရေးသားပြဆိုထား သည်ကို တွေ့မြင်ဖတ်ရှုရပါသည်။

ယင်းသို့ ရေးသားရာ၌လည်း ဆရာတော့်ထုံးစံအတိုင်း စာဖတ်သူများအား ဆရာတော်ကိုယ်တိုင် နားမလည်လျှင် နားလည်စေရန် အနီးမှာ လာထိုင်နေပြီး ရှင်းလင်း ပြသ ပို့ချပေးနေသည်ဟု ထင်မြင် ရလောက်အောင် ရေးသားထားသည်ကို ဖတ်ရှု သိရပါသည်။

## ရတနာ့ဂုဏ်ရည်

**စာမျက်နှာ – ၃၈၆ + ၁၄။**
**စတင်ရိုက်နှိပ်သောခုနှစ် – ၁၂၉၃။**

ဤ "ရတနာ့ဂုဏ်ရည်"သည် ဆရာတော်ကြီး၏ ပထမဆုံးထုတ်ဝေသော ကျမ်းစာအဖြစ် ထင်ရှား သည်၊ ဤကျမ်းကို ဆရာတော် သက်တော် ၃၂ နှစ် ၁၃ ဝါ အရတွင် ရေးသားဖြန့်ချိရာ ဖတ်ရှုရသူတိုင်း ရတနာ့သုံးပါး၌ ကြည်ညိုသဒ္ဓါ ပွားများကြရပေသည်၊ ဗုဒ္ဓသာသနာတော်တွင် လေးစားယုံကြည်စိတ် ပေါ်လာပြီး ဆရာတော်အား တွေ့ဆုံ ဖူးမြော်လိုသောစိတ် ပေါ်ပေါက်လာစေသော ပကိဏ္ဏကကျမ်းစာ ၃ အုပ်အနက် တစ်အုပ်ဖြစ်သည်၊ အခြား နှစ်အုပ်မှာ ကိုယ်ကျင့်အဘိဓမ္မာနှင့် အနာဂတ်သာသနာရေး ကျမ်းစာများ ဖြစ်သည်၊ ဤကျမ်းတွင် မိရိုးဖလာ ဗုဒ္ဓဘာသာဝင်အဖြစ်မှ ပညာဗုဒ္ဓဘာသာဝင်, သဒ္ဓါ ဗုဒ္ဓဘာသာဝင် ဖြစ်လာအောင် ကြိုးစားအားထုတ်ပုံများကို လမ်းပြထားသည်၊ သက်တော်ထင်ရှား မြတ်ဘုရားတိုင်အောင် အာရုံ ပြုနိုင်, မှန်းဆနိုင်မှသာ စနစ်ကျန သာ၍ အကျိုးရသော ဖူးမြော်ခြင်း ဖြစ်ကြောင်းကို ဖော်ပြ၍ ဂုဏ်တော်များကို သိလွယ် ကြည်ညိုဖွယ်ဖြစ်အောင် တစ်သားစီ ရှင်းလင်းပြ ထားသည်၊ ထိုသို့ ပြထားရာ၌ ရှေးခေတ်က ရှေးစနစ်ဖြင့် ရေးသားအပ်ပြီးသော ဘုရားရှင်ဂုဏ်တော်ဖွင့် များတွင် အသိဉာဏ် မသက်ဝင်နိုင်သူတို့အထိ ကြည်ညိုသဒ္ဓါ ပွားလာနိုင်စေရန် ကျမ်းဂန်အဖွင့်လည်း လက်မလွတ်စေရ, ခေတ်ကာလနှင့်လည်း လိုက်လျောအောင် ညက်ညောသော အနက်များ, ထင်ရှားသော အဓိပ္ပာယ်တို့ဖြင့် ခပ်လွယ်လွယ် ရေးသားထားလေသည်။ ၅၃

တရားဂုဏ်တော်ကို ဖွင့်ဆိုရာ၌ မထင်ရှားသော တရားဂုဏ်တော်မည်သည် စိတ်ထဲ၌ ထင်မြင်နိုင်ရန် ခဲယဉ်းသောကြောင့် နက်နဲသော တရားဂုဏ်တော်ကို ဝတ္ထု၊ ပုံသက်သေများဖြင့် ထင်ရှားအောင် ရေးသား ထားသည်။

သံဃာ့ဂုဏ်တော်ဖွင့်၌လည်း ယခု မျက်မြင် သံဃာများလောက်တွင် စိတ်ဝင်စားမှုကို အထူး တားမြစ်လျက် ရှေးရှေးက အရိယာသံဃာတော်များနှင့် သီလရှိသော ပုထုဇဉ်သံဃာတော်များကို ရည်မှန်း အာရုံပြုတတ်အောင် ညွှန်ပြထားသည်။

ငါးပါးသီလ, ရှစ်ပါးသီလ, အာဇီဝဋ္ဌမကသီလ, နဝင်္ဂသီလ, ဆယ်ပါးသီလများတို့ကိုလည်း နည်းလမ်း ကျအောင် ပြုထိုက်သောကြောင့် အဓိပ္ပာယ်များကို သဘောပေါက် နားလည်လာအောင် ဖွင့်ပြထားသည်၊ ဒုစရိုက်အကြောင်း, သုစရိုက်အကြောင်း, က-ကံ၏အကျိုးနှင့် ကံ ဉာဏ် ဝီရိယ မျှတအောင် ပြုလုပ်ရန် သတိပေးပြီးနောက် ဘုရားဖြစ်တော်စဉ်ကို အကျဉ်းမျှ ဖော်ပြပြီးလျှင် သမုဒ္ဒဝါဏိဇာတ်ဖြင့် သတိပေး နိဂုံးချုပ်ထားသည်၊ ရှေးက ကျောင်းသုံးသင်ခန်းစာ ဖြစ်ခဲ့ဖူးသည်။

## ကိုယ်ကျင့်အဘိဓမ္မာ

**စာမျက်နှာ – ၃၅၁ + ၃၄။**
**စတင်ရိုက်နှိပ်သောခုနှစ် – ၁၂၉၄။**

ဗုဒ္ဓမြတ်စွာ တစ်သက်တာအတွင်း ဟောကြားတော်မူခဲ့သော တရားတော်များကို သုတ္တန် ဝိနည်း အဘိဓမ္မာဟု ၃ မျိုး ခွဲခြားရာ အဘိဓမ္မာတွင် ခက်ခဲ နက်နဲလှသော တရားသဘောများ ပါဝင်သည်၊ နားလည်အောင် ဟောပြောရန် မလွယ်ကူဟု အများသိထားကြ၏၊ ဆရာတော်ကြီးသည် နက်နဲသော အဘိဓမ္မာတရား အဆီအနှစ်များကို သာမညလူများ သိနားလည်လွယ်အောင် ရေးသားထားပြီး နေ့စဉ် မိမိတို့ လူမှုကိစ္စများ ဆောင်ရွက်ရင်း အဘိဓမ္မာသဘောများကို လက်တွေ့ လိုက်နာ ကျင့်သုံးကြစေရန် ရည်ရွယ်၍ ဤ "ကိုယ်ကျင့်အဘိဓမ္မာ"ကျမ်းကို ရေးသားတော်မူသည်။

ယခုခေတ်တွင် လူတို့၌ မေတ္တာ ကရုဏာ မုဒိတာဟူသော ဗြဟ္မစိုရ်တရားများ သွေ့ခြောက်ပြီး တစ် ယောက်နှင့်တစ်ယောက် မညှာတာနိုင်အောင် လောဘ ဒေါသ မာန်မာနနှင့် ဣဿာ မစ္ဆရိယ အပူဓာတ် များ ပျံ့နှံ့နေသည်၊ ဤအပူဓာတ်သည် ယခုဘဝတွင်သာ မဟုတ်၊ သံသရာတစ်လျှောက် နောက်နောက် ဘဝများ၌လည်း ခြောက်ကပ်စေလိမ့်မည်သာ ဖြစ်သည်၊ ထိုအပူဓာတ်တွေကို ယခုဘဝက စွမ်းနိုင်သမျှ ငြိမ်းသတ်လျက် မြင့်မြတ်သော စိတ်ထားဖြင့် မေတ္တာ ကရုဏာ မုဒိတာဟူသော ဗြဟ္မစိုရ်အအေးဓာတ် မပြတ်စိမ့်စိုအောင် ကြိုးစားကြစေရန် ရည်သန်၍ ရေးထားကြောင်း ဆရာတော့် နိဒါန်းက ဖော်ပြ၏။

ဆရာတော်၏ ဆန္ဒကား လူအားလုံးကို ယောနိသော မနသိကာရ သင့်တော်အောင် နှလုံးသွင်း တတ်သူ, ဗြဟ္မစိုရ်တရား လက်ကိုင်ထားလျက် ကြီးမားသော စိတ်သဘောရှိသူ, အပေါင်းအသင်းဆံ့သူ ဖြစ်စေလိုသည်၊ ချမ်းသာရွှင်ပျနေသူဖြစ်စေ, ဆင်းရဲပူပန်နေသူဖြစ်စေ, စိတ်နေမပြောင်း စိတ်ကောင်း မပျက် စိတ်စက်ကြည်ကြည် တည်တည်တံ့တံ့နှင့် ခံ့ခံ့ကြီး နေနိုင်စေလိုသည်၊ သံသရာတစ်လျှောက် ကောင်းအောင် ဒါန သီလ စသော လက်လှမ်းမီရာ ပါရမီကောင်းမှု ကုသိုလ်စုကို ကြိုးစားနေသူ ဖြစ်စေ လိုသည်။

၁၁၄

ဤ ၃ ချက်ကို အရင်းထား၍ ဤကျမ်းစာကို ရေးသားထားရာ စိတ် စေတသိက် ရုပ် စသောအခန်း၊ ဒါန သီလ စသောအခန်း၊ ကံနှင့်စပ်သော သင်ခန်းစာတို့ကို လွယ်ကူပြတ်သားစွာ ဥပမာ ဥပမေယျများစွာနှင့် ရှင်းလင်းပြထားသည်မှာ မလေ့လာဖူးသူများပင် သဘောပေါက်စေပြီး ဆက်လက်သင်ကြားလိုသူများအဖို့ ခိုင်မြဲသော အခြေခံကို ဖြစ်စေနိုင်ပေသည်၊ ဤကျမ်း၏ မာတိကာစဉ်ကို မေးခွန်းသဖွယ်စီစဉ်ထားရာ မာတိကာမေးခွန်းကို ပထမကြည့်ပြီး ဆိုင်ရာစာမျက်နှာကို လေ့လာခြင်းဖြင့် အရင်းအမြစ်ကျနစွာ နားလည် သဘောပေါက်စေမည် ဖြစ်သည်ကို တွေ့ရလေသည်၊ လူချမ်းသာ နတ်ချမ်းသာ ဗြဟ္မာချမ်းသာ နိဗ္ဗာန်ချမ်းသာကို စဉ်းစားနိုင်အောင် ဖော်ပြထားသည်။

## အနာဂတ်သာသနာရေး

**စာမျက်နှာ – ၄၈၀။**

**စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၁၀။**

အနာဂတ်သာသနာရေးကျမ်းစာကို ဆရာတော်ကြီးသည် ၂၈ ဝါ အရ ၁၃၀၉ ခုနှစ်တွင် ရေးသားတော်မူသည်၊ ဆရာတော်သည် သီတင်းသုံးဖော် အချင်းချင်း မြန်မာနိုင်ငံသာသနာတော်အရေးနှင့်စပ်၍ ပြုပြင်သင့် ဖြည့်စွက်သင့် နုတ်ပယ်သင့်သော အချက်များကို မကြာခဏ ဆွေးနွေးလေ့ ရှိ၏၊ ထက်သန်သော သာသနာချစ်စိတ်နှင့်အတူ ကမ္ဘာတွင် မြန်မာတို့ ရင်ပေါင်တန်း ကြီးပွားတိုးတက်စေရမည်ဟူသော မျိုးချစ်စိတ်ဓာတ်ကလည်း ပြင်းထန်ခဲ့၏။

ဗုဒ္ဓသာသနာတော်ကို အခြေခံ၍ မြန်မာပြည်ကို သာယာဝပြော ထင်ရှားသော နိုင်ငံတစ်ခု ဖြစ်လာအောင် ခေါင်းဆောင် ပြုပြင်နိုင်မည့် ရှင်လူများကို ဗုဒ္ဓသာသနာတော်က မွေးထုတ်ပေးနိုင်သည်ဟုလည်း အကြွင်းမဲ့ ယုံကြည်တော်မူသည်။

မြန်မာတို့၏ တိုးတက်နိုးကြားလာသော နိုင်ငံရေးစိတ်ဓာတ်ကြောင့် ဒုတိယကမ္ဘာစစ်ကြီးအပြီးတွင် လွတ်လပ်ရေး ရတော့မည့် အရိပ်အရောင်များ ပေါ်ထွက်လာသောအခါ လွတ်လပ်သည့် မြန်မာနိုင်ငံအတွက် ပြုပြင်ရေး လမ်းညွှန်တစ်ခု အချိန်မီ ရေးသားရန် ကြိုးစားခဲ့လေသည်၊ ကြိုးစားသည့်အလျောက် လွတ်လပ်ရေး မကြေညာမီ တစ်ရက်အလို ၁၃၀၉ ခု ပြာသိုလပြည့်ကျော် ၈ ရက်တွင် ရေးသား ပြီးစီးတော်မူသည်။

ဤကျမ်းစာတွင် ဆရာတော်၏ ခေတ်မီ အတွေးအခေါ်များကို အတော်များများ တွေ့ရမည်ဖြစ်၏၊ ထွက်ပေါ်စက အချို့ပုဂ္ဂိုလ်များက မနှစ်သက်ကြ၊ ခေတ်ရှေ့ပြေးနေသော အယူအဆများကို လက်မခံလိုကြ၊ သို့သော် အများစုက ကျေနပ်နှစ်သက်စွာ လက်ခံကြသည်။

ဤကျမ်းတွင် ဆရာတော်သည် စာရှုသူများ သဒ္ဓါ ပညာ တိုးပွားစေရန် ရည်သန်၍ ရတနာသုံးပါး အကြောင်းကို တိုတိုတုတ်တုတ်နှင့် ရှင်းလင်း လွယ်ကူစွာ ရေးသားထား၏၊ ဗုဒ္ဓအပေါ်၌ အကြွင်းမဲ့ မယုံကြည်တတ်သေးသော သူများအတွက် ဗုဒ္ဓ စစ်-မစစ်/ မှန်-မမှန်ကို အကဲဖြတ်ဖို့ရန် ဓမ္မစကြာတရားတော် အနတ္တလက္ခဏာတရားတော် ပဋိစ္စသမုပ္ပာဒ်တရားတော်များကို မကျဉ်းမကျယ် ရှင်းလင်းရေးပြထားတော်မူသည်။

ဗုဒ္ဓလက်ထက်တော်မှစ၍ အသောကမင်း၊ ဒုဋ္ဌဂါမဏိမင်းလက်ထက်အထိ သံဃာတော်များ သာသနာစည်ပင်ရေးအတွက် ဆောင်ရွက်တော်မူကြပုံကိုလည်း စုံလင်စွာ ထုတ်ဖော်ပြထားသည်၊ မြန်မာနိုင်ငံ သာသနာရောက်လာပုံမှ စ၍ တဖြည်းဖြည်း စည်ပင်လာပုံနှင့် ပစ္စက္ခသာသနာ အခြေအနေဆုတ်ယုတ်လာပုံတို့ကိုလည်း ကွက်ကွက်ကွင်းကွင်း တင်ပြထားသည်၊ ယိုယွင်းဆုတ်ယုတ်လာပုံတို့ကို ဖော်ပြပြီးနောက် မည်သို့ မည်ပုံ ပြုပြင်သင့်သည်ဟူသော နည်းလမ်းများကိုလည်း ညွှန်ပြထားတော်မူသည်။

အထူးသဖြင့် အနာဂတ်သာသနာ ပြုပြင်ရေးကို အကြံပြုရာ၌ ရဟန်းတော်များ သီတင်းသုံးရာကျောင်း နှင့် ကျောင်းတိုက်များသည် ဗုဒ္ဓအလိုတော်ကျ ဖြစ်ဖို့ရာ ကျမ်းစာများကို သင်ယူပို့ချသော ပရိယတ်ကျောင်း တိုက်နှင့် တရားကျင့်သုံးသော ပဋိပတ်ကျောင်းတိုက်များသာ ဖြစ်စေသင့်ကြောင်း, ထိုနှစ်မျိုးတွင် တစ်မျိုး မျိုးမှ ကျကျနန မရှိသော ကျောင်း, ကျောင်းတိုက်များသည် နှစ်အတော်ကြာလျှင် အလိုအလျောက် ပျောက်သွားအောင် အစိုးရနှင့် ဝန်ဆောင်ပုဂ္ဂိုလ်များက ကြောင့်ကြစိုက်သင့်ကြောင်း အကြံပြုထားသည်။

မြန်မာပြည်တွင်သာမကဘဲ ကမ္ဘာကို ခြေလှမ်းနိုင်ရေးအတွက်လည်း သံဃာတော်များအား မည်သို့ မည်ပုံ သင်ကြား ပို့ချသင့်ပုံတို့ကို သင်ရိုးညွှန်းတမ်းနှင့်တကွ အကြံပေးထားသည်၊ သာသနာရေးကို အမည်ခံ၍လည်းကောင်း, ဆက်နွှယ်၍လည်းကောင်း ပြုလုပ်နေကြသော ရှင်ပြုပွဲ, ရဟန်းခံ, ကထိန်ခင်း, ဘုန်းကြီးပျံ, ဘုရားပွဲ, ဘုရားတည်, ဆွမ်းကြီးလောင်း, ဆွမ်းတော်ကြီးတင်, အသုဘ စသည်တို့နှင့် ပတ်သက်၍လည်း လွဲမှားနေသော အယူအဆများ ပြုလုပ်ဆောင်ရွက်ချက်များကို အကျယ်တဝင့် ထုတ်ဖော်ပြထားပြီး လောက သံသရာ နှစ်ဖြာတွင် အကျိုးများစေမည့် မှန်ကန်သော ပြုပြင်နည်းများ ကိုလည်း ညွှန်ပြထားသည်။ ဤကျမ်းစာသည် ဘယ်အခါမှ မရိုးနိုင် မမှားနိုင်သော ဩဝါဒများ အပြည့် ပါရှိပေသည်၊ ဗုဒ္ဓဘာသာဝင်တိုင်း လက်ကိုင်ထား၍ မြတ်စွာဘုရား အဆုံးအမတော် အရှည်တည်တံ့ပါ စေသော် "ဗုဒ္ဓသာသနံ စိရံ တိဋ္ဌတု"ဟု ကြွေးကြော်နေသူတိုင်း လိုက်နာကျင့်သုံးကြရန် သင့်ပေသည်။

## ဗုဒ္ဓဘာသာသင်ခန်းစာ

**စာမျက်နှာ – ၃၉၁ + ၃၆။**

**စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၄၁။**

ဗုဒ္ဓဘာသာ၏ "ဟိုဟာ မလုပ်ရ, သည်ဟာ မလုပ်ရ ပညတ်ချက်တွေသည် လူတို့၏ တက်ကြွမှုကို ပိတ်ပင်၍ အောက်ကျ နောက်ကျ ဖြစ်စေသည်၊ ဗုဒ္ဓဘာသာသည် လောကီဘက်က တိုးတက်နေသော ယခု ကမ္ဘာဝယ် လိုက်၍ မမီနိုင်တော့"ဟူသော ခေတ်လူအချို့၏ ယူဆချက် လွဲမှားကြောင်းကို ဆရာ တော်က ဤကျမ်းစာတွင် ရှင်းလင်းထားသည်၊ ဗုဒ္ဓမြတ်စွာသည် သတ္တဝါတို့၏ ချမ်းသာဖို့အကျိုးငှာ ပွင့်တော်မူလာသည်၊ ဗုဒ္ဓမြတ်စွာ၏ တရားတော်များသည် လောကကြီးပွားရေးကို စနစ်တကျ အားပေး သော တရားများ ဖြစ်သည်၊ ဗုဒ္ဓဘာသာဝင်များ၏ အလိမ္မာနှင့် ဇွဲ သတ္တိမှာ အခြား ဘာသာဝင်များထက် သာသည်၊ ဗုဒ္ဓဟောထားတော်မူသော ဒါန သီလ ဘာဝနာ ကျင့်စဉ်များသည် ဗုဒ္ဓဘာသာဝင်များအား အကောင်းအဆိုး လောကဓံ နှစ်မျိုးကို သတ္တိရှိရှိ ရင်ဆိုင်နိုင်စေသည်ဟူသော အချက်များကို ဆရာတော်က အကြောင်းပြချက် စုံလင်စွာ ခိုင်ခိုင်လုံလုံ ရှင်းလင်း ပြထားသည်။

ဆရာတော်သည် မိမိကျောင်းတိုက် အုပ်ချုပ်ခြင်း စာချခြင်း ကျမ်းစာရေးသားခြင်း အစရှိသော အလုပ်များ မအားလပ်သည့် ကြားမှပင် လူငယ်ကျောင်းသားများကို ဗုဒ္ဓဘာသာအခြေခံ မိမိရရ ပိုင်နိုင် နားလည်ပြီး ဗုဒ္ဓဘာသာဝင်စစ်စစ် ဖြစ်နိုင်ရန်အတွက် သိသင့် သိထိုက် သင်ကြားထိုက်သော အချက်များကို သူငယ်တန်းမှ အဋ္ဌမတန်းအထိ သင်ခန်းစာများ စီစဉ်ရေးသားပေးတော်မူသည်၊ ဤစာအုပ်ကို ကြည့်ရှု လေ့လာခြင်းဖြင့် လူကောင်းလူတော်များ ဖြစ်လာနိုင်သည်။

ဤသင်ခန်းစာများသည် လူငယ်များအတွက် ဆိုစေကာမူ အိုမင်းရင့်ရော် သေသည်အထိ သိရ ကျင့်ရမည့် တရားများ ဖြစ်သည်၊ ဥပမာ-သတ္တမတန်းသင်ခန်းစာတွင် ပါဝင်သော စိတ်ချမ်းသာရေး, နောက်ဘဝအရေး သေဘေးအတွက် ပြင်ဆင်ရေးတို့သည်လည်းကောင်း, အဋ္ဌမတန်းသင်ခန်းစာမှ ခန္ဓ ၅ ပါး ရုပ်နာမ်တရား, ကံ-ကံ၏အကျိုး, သမ္ပတ္တိ ဝိပတ္တိ ခေတ် ၄ ပါး စသည်တို့သည်လည်းကောင်း တစ်သက်လုံး လမ်းညွှန်မည့်တရားများ ဖြစ်သည်၊ အတိုချုပ်ဆိုသော် ဗုဒ္ဓဘာသာဝင်တိုင်း လက်ကိုင်ထား ရမည့် အိမ်ထောင်သုံးကျမ်းစာတစ်အုပ် ဖြစ်သည်။

## ဘာသာသွေး

ဆရာတော်ကြီး၏ တစ်သက်တာလုံးတွင် ဗုဒ္ဓသာသနာတော် စည်ပင်တည်တံ့ရေးကျမ်းစာများကို အစဉ်တစိုက် ပြုစုတော်မူခဲ့သည်၊ ဗုဒ္ဓမြတ်စွာ၏ အဆုံးအမတော်များဖြစ်သော သုတ္တန် ဝိနည်း အဘိဓမ္မာ ပိဋကတ်တော်တို့ကို နောင်လာနောက်သား စာသင်သားတို့ သက်သာလွယ်ကူစွာ သင်ယူနိုင်ရေးအတွက် အဖွင့်ကျမ်းကြီးများကို "ဘာသာဋီကာ"ဟူသော အမည်ဖြင့် သင်ရိုးကုန်အောင် ရေးသားပြုစုတော်မူခဲ့သည်။

ထူးခြားသည်မှာ ဤမျှ သာသနာစိတ် ရှိတော်မူသော ကိုယ်တော်တွင် တိုင်းပြည်ချစ်စိတ် အမျိုးသားစိတ်ကလည်း အလွန်ထက်သန်တော်မူခြင်း ဖြစ်လေသည်၊ ထိုစိတ်များကို အရင်းခံ၍ "ဘာသာသွေး" ဟူသော ကျမ်းစာကို ရေးသားခဲ့လေသည်၊ "သာသာသွေး"ဟူသော စကားလုံးသည်ပင် ဆန်းသစ်လှပေသည်၊ ဗုဒ္ဓဘာသာ၏ အဆီအနှစ်ဖြစ်သော အကျင့်ကောင်း အကျင့်မှန်ကို ဗုဒ္ဓဘာသာသွေးဟု ခေါ်၏၊ မိဘ၏ သွေးက သားသမီးများ၌ ဆက်သွားသကဲ့သို့ ထိုအကျင့်လည်း ဗုဒ္ဓဘာသာသက်ဝင် ယုံကြည်သူတို့၏ စိတ်၌ ဆက်၍ ဆက်၍ လိုက်ပါနေသောကြောင့် သွေးနှင့်တူရကား ဥပမာတင်စား၍ ထိုကျင့်စဉ်ကို သွေးဟု ခေါ်ထားသည်။

ထို့ကြောင့် ဗုဒ္ဓဘာသာသက်ဝင်သူတိုင်း၌ ဘာသာသွေး အေးစက်စက် မရှိစေဘဲ သာသနာပြုလိုသော စိတ်ထက်သန်ဖို့ရန် "ဘာသာသွေး"ကို ရေးလိုက်ရသည်ဟု ဆရာတော်က နိဒါန်းတွင် ဖော်ပြထားပေသည်၊ ဤကျမ်းစာ၌ ဆရာတော်သည် ဘာသာသွေးကို အခြေခံပြီး သာသနာပြုပြင်ရေး အစီအစဉ်များကို ညွှန်ပြထားသည်၊ ရှေးအခါက မြန်မာများသည် ဘုန်းကြီးကျောင်းများမှ ဘာသာရေး အခြေခံရပြီး လိုက်နာဆောင်ရွက်ကြသဖြင့် သာသနာစည်ပင်ခဲ့ပုံ, နောက်ပိုင်းတွင် ဘာသာခြား (အင်္ဂလိပ်)စာ တွင်ကျယ်လာပြီး ဘုန်းကြီးကျောင်းများ တိမ်ကောခဲ့ပုံ, နိမ့်ကျလာပုံ, ဘုန်းကြီးကျောင်းများတွင် ကျောင်းသားနည်းပါးလာခဲ့ပုံ, ကျောင်းသားနည်းသဖြင့် တဖြည်းဖြည်း ကိုရင်နည်း, ကိုရင်နည်းသဖြင့် ပဥ္စင်းနည်း ဖြစ်လာပုံ၊ ကျေးရွာဘုန်းတော်ကြီးများ ခေတ်နှင့်လျော်အောင် သင်ကြားမှု ပေးနိုင်ရန် လိုအပ်ပုံ၊ ကျေးရွာကို ထိန်းသိမ်းစောင့်ရှောက် လမ်းညွှန်ရန် လိုအပ်ပုံတို့ကို ဖော်ပြပြီးနောက် ထိုလိုအပ်ချက်များကို မည်သို့မည်ပုံ ဆောင်ရွက်ပြုပြင်သင့်သည်ဟူသော နည်းလမ်းများကို အကျယ်တဝင့် ဖော်ပြထားလေသည်။

## ဗုဒ္ဓဝင် အမေးအဖြေ

ဗုဒ္ဓဘာသာဝင် မှန်သမျှသည် ဗုဒ္ဓမြတ်စွာ၏ အဖြစ်တော်ကို ကျကျနန သိရန်လိုသည်၊ ဘဝများစွာ ဖြည့်ဆည်းပူးတော်မူခဲ့သော ပါရမီပေါင်းစုံနှင့် ဂုဏ်တော်အပေါင်းကို ကျကျနန သိမှသာ လေးနက်မြဲမြံသော သဒ္ဓါတရားတည်ရှိရန် သေချာပေသည်၊ ဆရာတော်ကြီးသည် ငယ်စဉ်ကပင် ဘုရားအဖြစ်တော်စဉ် ဗုဒ္ဓဝင်ကို ကြားနာရပြီး လေးစားကြည်ညိုခဲ့သောစိတ် ပေါက်ဖွားလာပြီး တစ်ဘဝသံသရာအတွက် စိတ်ကောင်း နှလုံးကောင်း ရဖို့ရန် အခြေခံ မျိုးစေ့များ ဖြစ်ခဲ့သည်၊ ယခုခေတ် ကလေးသူငယ်များအား မိမိအကျိုး ရရှိခဲ့သည့်နည်းတူ ဗုဒ္ဓဘာသာ၌ သက်ဝင်ယုံကြည်မှု ဗုဒ္ဓအဖြစ်တော်ကို ဗုဒ္ဓဝင်အခြေခံရရန် ရည်ရွယ်၍ လက်ာသံပေါက်ဖြင့် အမေး အဖြေ စီစဉ်ရေးသားခဲ့ခြင်း ဖြစ်၏၊ လင်္ကာများ၏ အောက်ခြေတွင် လူကြီးလူငယ် အားလုံး ဖတ်ရှုလေ့လာရန် သင့်သော အဓိပ္ပာယ်ရှင်းလင်းချက်များ ပါဝင်သည်။

ဤဗုဒ္ဓဝင် အမေးအဖြေကို စီစဉ်ရေးသားရာ၌ အခန်း ၁၂ ခန်းခွဲကာ ပါရမီဆယ်ပါး၏ သဘောတရား, ဘုရားအလောင်းတော် ဖြည့်ကျင့်ခဲ့ပုံ, နောက်ဆုံးဘဝတွင် ဖွားမြင်တော်မူသည်မှစ၍ ထီးနန်းစံတော်မူပုံ တောထွက်တော်မူပုံ, ရဟန်းပြုသည်မှစ၍ ဘုရားဖြစ်တော်မူပုံ, ဘုရားဖြစ်တော်မူပုံမှ စ၍ ပရိနိဗ္ဗာန်စံတော်မူပုံ, နောက်ဆုံး ဓာတ်တော်မွေတော်များ စုပေါင်း၍ ဓာတုပရိနိဗ္ဗာန်စံတော်မူပုံအထိ သိသင့်သိထိုက်သော အချက်အလက်များအားလုံး ဖော်ပြထားသည်။

ဂုဏ်တော်အခန်း, ဗုဒ္ဓကိစ္စတော်များအခန်းတွင် ဗုဒ္ဓမြတ်စွာ၏ ကြည်ညိုဖွယ်ရာ ဂုဏ်ကျေးဇူးတော် အဖြာဖြာနှင့် သတ္တဝါဝေနေယျတို့အတွက် မနေမနား ကြိုးစားအလုပ်လုပ်ပုံများကို ကြည်ညိုဖွယ်ရာ ရေးသားထားလေသည်။

ဗုဒ္ဓအဆုံးအမများနှင့် မြန်မာနိုင်ငံသူ နိုင်ငံသား ကြီးပွားတိုးတက်စေမည်ဟူသော ဆန္ဒတော် အမြဲ ကိန်းဝပ်နေသော ဆရာတော်ကြီးသည် ကလေးများကို ဦးတည်၍ ဗုဒ္ဓအဖြစ်တော်ကို လွယ်လွယ်ကျဉ်း ကျဉ်းနှင့် ရေးသားခဲ့၏၊ သို့သော် လူကြီးများ ရှေ့ဆက်လက် ကြည့်ရှုကြပါရန်ဟု ညွှန်းကာ အခန်း ၁၂ ကို သာသာရေးနိဂုံး စာအုပ်ဖြင့် ဆက်လက် ရေးသားထားသည်၊ ဤအခန်းတွင် လက်ငင်း ဖြစ်ပေါ်နေ သော သာသနာတော် အခြေအနေကို ဖော်ပြကာ ဆရာဒကာများ နောင်ရေးအတွက် မည်သို့ မည်ပုံ ဆောင်ရွက်သင့်သည်တို့ကို ညွှန်ပြထားလေသည်၊ ဤကျမ်းစာတွင် လယ်တီဆရာတော်ကြီး ရေးသားသော ဗုဒ္ဓဝင်လင်္ကာကို ဖြည့်စွက်၍ ပါရမီဖြည့်ခန်းမှ ဓာတုပရိနိဗ္ဗာန်စံခန်းအထိ လင်္ကာရေးထားရာ ဗုဒ္ဓဘာသာ ဝင်တိုင်း အရကျက်မှတ် ရွတ်ဆိုနေကြရန် ကောင်းလှလေသည်။

## ဗုဒ္ဓါနုဿတိဘာဝနာ

"ဗုဒ္ဓမြတ်စွာ၏ ဂုဏ်တော်များကို အဖန်ဖန် အထပ်ထပ် သတိရနေခြင်းကို "ဗုဒ္ဓါနုဿတိ"ဟု ခေါ်၏၊ ထိုသတိကို မိမိစိတ်အစဉ်၌ ဖြစ်စေခြင်း, ထိုသတိဖြင့် မိမိစိတ်ကို ထုံမွမ်းထားခြင်းကို "ဗုဒ္ဓါနုဿတိဘာဝနာ" ဟု ခေါ်သည်၊ ဗုဒ္ဓဘာသာဝင် အများစုသည် အိပ်ရာဝင် အိပ်ရာထ ဘုရားဝတ်ပြု ရှိခိုးလေ့ ရှိကြသည်၊ ထိုသို့ ဘုရားရှိခိုးသောအခါ ဗုဒ္ဓမြတ်စွာ၏ ဂုဏ်တော်များကို ရွတ်ဆို၍ ရှိခိုးကြ၏၊ ထိုသို့ နှုတ်က ရွတ်ဆို သည့်အတိုင်း စိတ်ကလည်း ဗုဒ္ဓမြတ်စွာ၏ ဂုဏ်တော်များကို ဆင်ခြင်သတိရနေလျှင် ထိုအချိန်သည် ဗုဒ္ဓါနုဿတိဘာဝနာ ပွားများနေရာ ရောက်ပါသည်၊ ထို့ကြောင့် ဗုဒ္ဓါနုဿတိဘာဝနာကမ္မဋ္ဌာန်းသည် နေ့စဉ် ညစဉ် ဘုရားကို ရှိခိုးလေ့ရှိသော ဗုဒ္ဓဘာသာဝင်တို့အတွက် လွယ်ကူသော ကမ္မဋ္ဌာန်းဖြစ်ပါသည်" ဟု ဆရာတော်က နိဒါန်းတွင် ဖော်ပြထားသည်။

ဆရာတော်သည် သီလစောင့်ထိန်းရန်လိုအပ်ပုံ, စင်ကြယ်သောသီလကို အခြေခံ၍ စိတ်တည်ကြည်မှု သမာဓိကို ရသောအခါ ဗုဒ္ဓမြတ်စွာကို ဉာဏ်ဖြင့် ထင်ထင် မြင်နိုင်ပုံကို ညွှန်ပြထားတော်မူသည်၊ ဗုဒ္ဓ မြတ်စွာ၏ ကြည်ညိုဖွယ် ရူပကာယဂုဏ်တော်များ ဖြစ်သောလက္ခဏာတော် ကြီးငယ်တို့ ကျက်သရေရှိပုံ၊ လောကသုံးရပ်တွင် သိရန်မှန်က မကျန်ရအောင် သိမြင်တော်မူနိုင်သော သဗ္ဗညုတဉာဏ်တော်၏ ကြီးကျယ်မြင့်မြတ်ပုံ၊ မာရ်ငါးပါးကို အောင်တော်မူပုံ၊ ဂုဏ်တော် ၉ ပါး၊ အာဝေဏိက ၁၈ ပါး၊ ဉာဏ်တော် ၁၀ ပါး ကြည်ညိုပွားများနည်းတို့ကို သဒ္ဓါတရား ထက်သန်ကြည်လင်လာနိုင်အောင် ရှင်းလင်း ဖော်ပြ ထားသည်။

ဆရာတော်သည် အများက ရဟန္တာလောက် ရှိသေလေးစားခြင်းခံရသော နိဗ္ဗာနမဂ္ဂဒီပနီကျမ်းပြု စစ်ကိုင်းတောင်ရိုး မဟာဂန္ဓာရုံဆရာတော်၏တပည့် ဖြစ်သည်၊ နိဗ္ဗာနမဂ္ဂဒီပနီကျမ်း၌ ဗုဒ္ဓါနုဿတိဖြင့် နိဗ္ဗာန်ရောက်နိုင်လောက်အောင် ရေးသားထားသည်၊ ယင်းကျမ်းလာ ဗုဒ္ဓါနုဿတိဘာဝနာဖြစ်အောင် "ဆိတ်-တင်-ဖြောင့်-ငါး, ရှေ့မြဲ-ပွား, ကြိုးစား ဘာဝနာ"ဟူသော ဆောင်ပုဒ်နှင့်အညီ မှန်ကန်သော ကမ္မဋ္ဌာန်းဘာဝနာ ပွားများနည်းကို ညွှန်ပြထားတော်မူသည်။

ဤကျမ်းစာကို ထပ်မံရိုက်နှိပ်ရာ၌ ဖြည့်စွက်ချက်အနေဖြင့် အဇာတသတ်မင်း ဘုရားကြည်ညိုပုံ, အသောကမင်းတရား သာသနာပြုတော်မူပုံ, သီးလုံးဆရာတော် ရွှေကျင်ဆရာတော်တို့ ဘုရားအာရုံ ပြုပုံတို့ကို ဖော်ပြထားသည်၊ ထို့ပြင် ခရစ်တော်နှင့် ပတ်သက်သော ဗုဒ္ဓဘာသာနှင့် အဆက်အနွယ် ဖြစ်ရပ်တစ်ခုကိုလည်း ဖော်ပြထားသည်၊ ထို လူသိနည်းသေးသော ဖြစ်ရပ်ကို ဆရာတော်ကြီးသည် ထင်မြင်

ယူဆချက်များနှင့်တကွ ရှင်းလင်း ဖော်ထုတ်ပြီးနောက် ခရစ်တော်၏ အဆုံးအမနှင့်အညီ ခရစ်ယာန် ဘာသာဝင်များ စည်းကမ်းရှိပုံကိုလည်း ချီးကျူး ဖော်ပြထားသည်။

## အခြေပြုမင်္ဂလသုတ်

"ကလေးများသည် ငယ်ငယ်က မလိမ္မာလျှင် လူပျိုဘဝ အပျိုဘဝ ရောက်ကြသော်လည်း လိမ္မာကြမည် မဟုတ်၊ ဤမြန်မာပြည်ထောင်စုသည် လူမတရား လူမိုက်များ စုနေသော ပြည်ထောင်စု မဖြစ်ဖို့ရာ ကလေးအရွယ်က စ၍ အစွမ်းကုန် လိမ္မာကြစေလိုသောကြောင့် ဤမင်္ဂလသုတ်ကျမ်းငယ်ကို ဖတ်ချင်စဖွယ် မှတ်သား နာယူလွယ်အောင် စီစဉ်ရေးသားခဲ့သည်၊ **"ကလေးရွယ် လိမ္မာနှင့်ပါမှ၊ ကြီးရင့်က လိမ္မာမည်၊ မလိမ္မာ ပြည်ထောင်စုကြလျှင် ကောင်းမှုမတည်၊ ကလေးတို့နေပြည် တည်စေဖို့ စိတ်စော၊ နံနက်မင်္ဂလာနှင့် နေ့မကွာ ညပါ သုံးလို့ရယ် ပြုံးကြစေသော"**

နက်နဲ ခက်ခဲသော ကျမ်းကြီး ကျမ်းခိုင်များကို စာသင်သား သံဃာတော်များအတွက် ရေးသားပြုစုသင်ကြား ပို့ချနေရင်း နေ့မအား ညမအား အလုပ်များနေသော ဆရာတော်ကြီးသည် အနာဂတ်ပြည်ထောင်စုသားများ ဖြစ်လာမည့် ကလေးငယ်များအတွက်လည်း စိတ်မအေး ဖြစ်မိသေးသည်။

ကလေးများကို ငယ်ငယ်ကတည်းက လိမ္မာတတ်သိစေပြီး မျိုးချစ်လူငယ် လူကောင်းလေးများ ဖြစ်လာစေလိုသည်၊ ၃၈ ဖြာ မင်္ဂလာတရားတော်များသည် နုနယ်ပျိုမြစ်သော ကလေးငယ်များကို ပညာရေး လူမှုရေး စာရိတ္တရေး ခိုင်မာ အခြေတည်စေမည်ဟု ယုံကြည်တော်မူသည်။

လူငယ် လူလတ် လူကြီးမရွေး တစ်ဘဝ တစ်လျှောက်လုံး လမ်းညွှန်ပေးမည့် မင်္ဂလာတရားတော်များကို ဆရာတော်ကြီးသည် ကလေးများကို ရည်ရွယ်ဦးတည်ပြီး လွယ်ကူအောင် ရေးသား၍ အခြေပြု ဟူသော အမည်ဖြင့် ရေးသားခဲ့လေသည်။

"အခြေပြုမင်္ဂလသုတ်"ကို ဝိုင်အမ်ဘီအေအသင်းက စတင်ပုံနှိပ်၍ အကြိမ်ကြိမ် ထုတ်ဝေခဲ့ပြီး တစ်ပြည်လုံး ပျံ့နှံ့ စေခဲ့သည်၊ ယခုအခါ လူငယ်များအတွက် မင်္ဂလာစာမေးပွဲများသည် တစ်ပြည်လုံး ပျံ့နှံ့အခြေတည်လျက် ရှိနေပေပြီ၊ ဗုဒ္ဓဘာသာ မျိုးချစ်လူငယ်များ ဖြစ်လာရေးအတွက် ဤကျမ်းစာ ကလေးသည် သန်စွမ်းခိုင်မာသော မျိုးစေ့ကို ချပေးနိုင်ပေသည်။

## ဘာသာရေးပြဿနာများ

၁၃၂၆ ခု (၁၉၆၄) ခုနှစ်က ဂါဒီယံသတင်းစာ အယ်ဒီတာ ဦးစိန်ဝင်း၏ ခေတ်လူများ ကိုယ်တိုင် ကြုံတွေ့နေရသော ဗုဒ္ဓဘာသာဆိုင်ရာ ပြဿနာအမေးများကို သာသနာတော်တွင် အကျိုးရှိအောင် အသေးစိတ် ဖြေဆိုပေးတော်မူခဲ့သည်။

ထိုမေးခွန်းများကို မဖြေမီ ဗုဒ္ဓဘာသာ သာသနာ၌ စဉ်းစားဖွယ်အချက်များကို "ဘာသာရေးအခြေခံ အခန်း" အမည်ဖြင့် ဦးစွာ ဖော်ပြရေးသား ညွှန်ကြားထားသည်မှာ မည်သည့် အယူဝါဒကို လက်ခံသူပင် ဖြစ်စေ စဉ်းစားဉာဏ်ရှိသူတိုင်း အလွန်သိသင့်သော အချက်များ ဖြစ်ပါသည်။

မေးခွန်းပြဿနာများမှာလည်း ရဟန်းတော်များနှင့် မကင်းနိုင်သူ ဗုဒ္ဓဘာသာဝင် မှန်သမျှ ကျနအောင် ဖတ်ရှုလေ့လာထိုက်ပါသည်။

## ဗုဒ္ဓဘာသာလက်စွဲ

၁၃၁၂ ခုတွင် နိုင်ငံတော်အစိုးရက ဩဝါဒါစရိယ ဆရာတော် ၄ ပါးကို ဦးထိပ်ထား၍ ဗုဒ္ဓဘာသာ သင်ခန်းစာစီစဉ်ရေးအဖွဲ့ကို ဖွဲ့စည်းခဲ့ကြပါသည်၊ ဩဝါဒါစရိယဆရာတော်များနှင့် အဖွဲ့ဝင် ဒါယကာတို့သည် အတန်းအလိုက် ကျမ်းစာများကို ပိုင်းခြားသတ်မှတ်ပြီးနောက် အမရပူရ မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသအား သူငယ်တန်းမှ စတုတ္ထတန်းအထိ မူလတန်းသင်ခန်းစာများကို ရေးသားရန် တာဝန်ပေးအပ်ကြပါသည်၊ ထိုသို့ လွှဲအပ်သည့်အားလျော်စွာ ထက်သန်သောစေတနာဖြင့် စီစဉ်ရေးသားကြောင်းကို ရေးသားပုံ အစီအစဉ်ကပင် သက်သေပြလျက် ရှိပါလိမ့်မည်၊ "သင်ပြပို့ချသော ဆရာတို့လည်း အသက်မွေးဝမ်းကျောင်းအလုပ်ဟုသာ သဘောမထားဘဲ အနာဂတ်ကာလ၌ ပြည်ထောင်စုနိုင်ငံတော်မှ စာရိတ္တဗလ ပြည့်ဝစုံလင်သော သားကောင်း သမီးကောင်းများ ထွန်းကားစေရမည်"ဟူသော သမ္မာဆန္ဒဖြင့် မိမိတို့အတွက် ပညာပါရမီလည်း တပါတည်းရစေလျက် နှစ်သက်ကြည်နူးစွာ သင်ပြပို့ချကြလိမ့်မည်ဟု မျှော်လင့်ပါသည်"ဟု ဆရာတော်ကိုယ်တိုင် နိဒါန်းတွင် ရေးသားထားတော်မူပါသည်။

"ဗုဒ္ဓဘာသာလက်စွဲ" မူလတန်းအနေဖြင့် ပထမတွဲ အပိုင်း ၁, အပိုင်း ၂၊ ဒုတိယတွဲ-၁၊ တတိယတွဲ-၁၊ စတုတ္ထတွဲ-၁၊ ဆရာကိုင်-၁၊ ပေါင်း ၆ အုပ် ရေးသားတော်မူပါသည်။

စာရေးပုံမှာ ကလေးများနှင့် သင့်လျော်ပြီး လက်တွေ့ကျင့်သုံးနိုင်အောင် ရေးသားထားခြင်းမျှဖြစ်၍ ကလေးများအတွက် အလွန် သင့်တော်ပေသည်၊ ထိုအချိန်က စာအုပ်ကလေးများ သိန်းနှင့်ချီ၍ ရိုက်နှိပ်သော်လည်း ယခု ဝယ်၍ မရတော့ပါ။

## လူ့ချမ်းသာ

မွန်မြတ်လှသော လူ့အဖြစ်ကို ရခိုက်တွင် ဘဝတစ်လျှောက်လုံး ကိုယ်ချမ်းသာ စိတ်ချမ်းသာစွာ နေနိုင်ရေးအတွက် ဤကျမ်းစာက နည်းလမ်းညွှန်ပြထားသည်၊ ဆရာတော်ကြီးသည် လူ့ပြည်၌ ချမ်းသာစွာ နေနိုင်သော နည်းလမ်းတွေ ရှိပါလျက် မနေတတ်၍ မချမ်းမသာ ဖြစ်နေရသော လူတွေကို မြင်နေရသော အခါ များစွာ ကရုဏာ ဖြစ်ခဲ့ရသည်၊ ထိုကရုဏာတရား စေစားချက်အရပင် ခေတ်ပြင်တရားများ ဟောပြောရင်း, စာပေပို့ချ သာသနာ့ဝန် စွဲစွဲမြဲမြဲ ထမ်းဆောင်ရင်း, သာသနာတည်ရေးကျမ်းကြီးများ ရေးသားတော်မူရင်း မအားမလပ်သည့် ကြားမှပင် ဤကျမ်းကို စီစဉ်ရေးသားခဲ့ပေသည်။

ငရဲဘဝ, ပြိတ္တာဘဝ, တိရစ္ဆာန်ဘဝ, လူ့ဘဝ, နတ်ပြဟ္မာ့ဘဝအားဖြင့် ဘဝ ၅ မျိုး ရှိရာတွင် လူ့ဘဝသည်သာ ရပြီးသား ချမ်းသာကို တိုးတက်အောင် ပြုလုပ်နိုင်ပုံ, နောင်ရေးနောင်တာ သံသရာခရီးအတွက် ကြိုတင်၍ ပြင်ဆင်မှု, ပါရမီ တိုးပွားအောင် ကြိုးစားမှု ပြုနိုင်ပုံတို့ကို ရှင်းလင်း ဖော်ပြထားသည်။

နတ် ပြဟ္မာဘဝထက် အဖိုးတန်သော လူ့ဘဝကို လက်ကိုင်ရကြသူ လူအများသည် ယခုဘဝရော နောင်ဘဝအတွက်ပါ ဒုက္ခနည်းပါး၍ ချမ်းသာသုခ ကြီးပွားအောင် နေတတ် ထိုင်တတ် ပြောဆိုတတ် စိတ်ထားတတ်အောင် နည်းလမ်းကောင်းများ ပေးထားပေသည်။

ရှေးဦးစွာ ကိုယ်ဆင်းရဲ ဖြစ်ရပုံ, စိတ်ဆင်းရဲ ဖြစ်ရပုံကို ဖော်ပြပြီးနောက် ကိုယ်ချမ်းသာ စိတ်ချမ်းသာရေးအတွက် နေထိုင်နည်းကို ပြဆိုထားသည်၊ ကျန်းမာရေးသည် ကံ စိတ် ဥတု အာဟာရဟူသော အကြောင်း ၄ ခုက ပေါင်းစပ်၍ ပြုပြင်တတ်သော သဘောရှိရာ ထိုအကြောင်း ၄ ခုကို မည်သို့ မည်ပုံ ပြုပြင်နိုင်ကြောင်း နည်းကောင်းများ ပြထားသည်။

လူ့ဘဝကို ပဋိသန္ဓေနေပုံကစပြီး ရှင်းလင်းပြပြီးနောက် အမိဝမ်းတွင် ရှိစဉ် မိခင်၏ နေထိုင်ပြုမူနည်း, စိတ်ထားနည်း, သန္ဓေကို စောင့်ရှောက်နည်းကို ပြထားသည်၊ ပဋိသန္ဓေမှ ငါးနှစ်အရွယ်ကလေးအတွက်

မိဘတို့က ကလေးတို့ ခန္ဓာကိုယ်အတွက်လည်းကောင်း, စိတ်အတွက်လည်းကောင်း ပြုပြင်ပေးဖို့ရာ ပြုစုစောင့်ရှောက် သင်ပြနည်းတို့ကို နို့ချိုတိုက်ကျွေးနည်းက စ၍ အကျယ်တဝင့် ပြထားလေသည်၊ ဆရာတော်သည် လူ့ချမ်းသာ အပြည့်အဝ ရရှိရေးအတွက် ကိုယ်ကျန်းမာရေး, စိတ်ထားမွန်မြတ်ရေး, အသိအလိမ္မာ ဉာဏ်ပညာ ကြွယ်ဝရေး, အကျင့်စာရိတ္တ ကောင်းမွန်ရေးများကို အစုံအလင် နည်းပေးထားပေသည်။

## စစ်တပ်တရားတော်

"စစ်တပ်နှင့် သာသနာတော်သည် နိုင်ငံတော်၏ အားထားရာ ဖြစ်သည်" ဤကား တောင်မြို့ ဆရာတော်ကြီး၏ခံယူချက်ဖြစ်သည်၊ ၁၃၁၃ ခု ကဆုန်လတွင် မင်္ဂလာဒုံစစ်တပ်အတွင်း တရားဟောရစဉ်က ဤခေါင်းစဉ်ပေး၍ ဖော်ပြထား၏၊ ဆရာတော်ကိုယ်တိုင်ရေး နိဒါန်းတွင် အောက်ပါအတိုင်း ဖော်ပြထား၏။

"တောင့်တောင့်တင်းတင်းနှင့် အရည်အချင်းရှိ၍ နိုင်ငံတော်ကို အမှန်ချစ်ခင်စွာ သစ္စာစောင့်သော စစ်တပ်သည် နိုင်ငံတော်တစ်ဝန်းလုံးကို သိမ်းကျုံး၍ ထိန်းသိမ်းထားနိုင်ပါသည်၊ နံနက်စောစော၌ စစ်တပ်မှ ထွက်ပေါ်လာသော ဘင်ခရာအသံသည် အိပ်ရာမှ နိုးခါစဖြစ်သော တိုင်းသူပြည်သားကို စိတ်အား တက်ကြွစေပါသည်၊ ဘုန်းကြီးကား လွတ်လပ်ရေးရတော့မည်ဟု ကြွေးကြော်နေသော အချိန်အခါကပင် နိုင်ငံတော်သားကောင်းများ၏ အင်အားကို အားကိုးလျက် နိုင်ငံတော် တိုးတက်တော့မည်ဟု မျှော်လင့်ခဲ့ပါသည်။

သာသနာ့ဝန်ထမ်း ရဟန်းတော်များသည် စည်းကမ်းကျကျ နည်းကောင်းလမ်းမှန်ကို ညွှန်ပြတော်မူနိုင်ကြလျှင် ကျေးလက်တောရွာ အားလုံး တစ်ဟုန်တည်း တိုးတက်လာမည်မှာ မလွဲနိုင်သော မျှော်လင့်ချက် ဖြစ်ပါသည်၊ ဤမျှော်လင့်ချက်ကြောင့် အနာဂတ်သာသနာရေးကျမ်းစာကို လွတ်လပ်ရေးမရမီကပင် ရေးသားခဲ့ပါသည်၊ ဘုန်းကြီး ဖြစ်စေလိုသော သာသနာမှာ ယခုထက် ဩဇာကောင်း၍ ယခုထက် တိုင်းသူပြည်သားကို အကျိုးများစေနိုင်သော သာသနာ ဖြစ်ပါသည်။

တစ်ဖက်တစ်လမ်းမှ စစ်တပ်က နိုင်ငံတော်ကို ထိန်းသိမ်းလျက် တစ်ဖက်တစ်လမ်းမှ သာသနာတော်က နိုင်ငံတော်ကို အသိဉာဏ် တိုးပွားစေ၍ တရားမျှတအောင် ကြိုးစားပေးပါမူ ဤနိုင်ငံတော်သည် နှစ်ပေါင်း အနည်းငယ်အတွင်းမှာပင် ကမ္ဘာက အသိအမှတ် မပြုလျှင် မဖြစ်လောက်အောင် တိုးတက်လာရပေမည်ဟု မျှော်လင့်ကာ အနာဂတ်သာသနာရေးကျမ်းစာ၏ အစဆုံးဂါထာ၌ "အာရာမယေန္တု-ရေပြင်မြေပြင်, ဝေဟင်မလတ်, တပ်ပေါင်းကွပ်လျက်, အမြတ်ရတနာ, သာသနာလည်း, ရောင်ဝါထိန်ညီး, လုံးစုံပြီးအောင်, ချီးမြှောက်နိုင်ကြပါစေသတည်း"ဟု နိုင်ငံတော် တိုးတက်ရေးအတွက် စစ်တပ်နှင့် သာသနာကိုသာ တိုင်တည်ခဲ့ပါသည်။

## ရုပ်စုံ ဗုဒ္ဓသာသနာဝင်

မိမိ၏ ဘာသာအယူဝါဒကို အပူ အအေး သိတတ်ခါစ ကလေးအရွယ်က စ၍ အခြေခံ တတ်သိနားလည်ထားသူသည် ဘဝတစ်သက်တာတွင် အခြား အယူဝါဒကို ပြောင်းမည့်အကြောင်း မရှိတော့ပြီ၊ ထိုအခြေခံ အသိကို မူတည်၍ တစ်ဆင့်ထက် တစ်ဆင့် ပိုမို နားလည်လာသောအခါ ဤတစ်သက်တစ်ဘဝတွင် ဗုဒ္ဓမြတ်စွာ၏ အဆုံးအမတော်များကို မစွန့်နိုင်တော့ပြီ၊ ဆရာတော်ကြီးသည် ဤအချက်ကို မြင်တော်မူသောကြောင့် ပိဋကတ်သုံးပုံကို ပို့ချရင်း ရေးသားရင်းက ဤသူငယ်တန်းဖတ်စာကို ရေးသားပေးတော်မူခဲ့သည်။

ကလေးငယ်သည် ရုပ်ပုံများကို နှစ်သက်သည်၊ အနီ အပြာ အဝါ ရောင်စုံများကို ကြည့်ပြီး ရွှင်လန်းသည်၊ လွယ်ကူသော စာတမ်းကို ဖတ်လိုသည်၊ ဝတ္ထု ပုံပြင်ကို ခုံမင်သည်၊ နာကြားလိုသည်၊ ရုပ်စုံဗုဒ္ဓ

သာသနာဝင်သည် ဤအချက်များကို အပြည့်ပေးထား၏၊ စာမျက်နှာတိုင်းတွင် ရောင်စုံပုံများဖြင့် ဗုဒ္ဓမြတ်စွာ၏ အဖြစ်တော်စဉ်ကို ခြယ်မှုန်းထားသည်၊ မျက်နှာချင်းဆိုင်စာမျက်နှာတွင် ရှင်းလင်းလွယ်ကူသော စကားဖြင့် ပုံပါ အကြောင်းအရာကို တိုတိုကျဉ်းကျဉ်း ဖော်ပြထားသည်။

ဗုဒ္ဓဖြစ်တော်စဉ်ကို သုမေဓာဘဝက စ၍ နောက်ဆုံးဘဝ သိဒ္ဓတ္ထတိုင်အောင် ဖော်ပြပြီး ဒုက္ကရစရိယာကျင့်ပုံ, တရားစည်ကြီး ရိုက်တီးခဲ့ပုံ, ပရိနိဗ္ဗာန်ပြုပုံ အထိသာမက သင်္ဂါယနာအဆင့်ဆင့် တင်ခဲ့ပုံ, ဓမ္မာသောကမင်း, ဒုဋ္ဌဂါမဏီမင်း, အနော်ရထာမင်း, မင်းတုန်းမင်းအထိ သာသနာတော်ပြုခဲ့ပုံတိုင်အောင် စိတ်ဝင်စားဖွယ်ရာ သင်ပြပေးထားလေသည်၊ ဤရုပ်စုံဗုဒ္ဓသာသနာဝင်ကို ရန်ကုန်မြို့ ဗုဒ္ဓဘာသာကလျာဏယုဝအသင်းက တာဝန်ခံ ထုတ်ဝေ ဖြန့်ဖြူးခဲ့သည်၊ ယခု ကမ္ဘာအေး ဗုဒ္ဓသာသနာအဖွဲ့က ပြန်လည်ရိုက်နှိပ်သည်။

## သာသနာတော်ရေးလျှောက်ထားချက်

ရွှေကျင်ဂိုဏ်းလုံးဆိုင်ရာ သံဃာတော်များ အစည်းအဝေးကို အခါအားလျော်စွာ ၃ နှစ် တစ်ကြိမ် ကျင်းပလေ့ရှိသည်၊ ဒသမအကြိမ် အစည်းအဝေးကို မန္တလေးမြို့ မဟာဝိသုဒ္ဓါရုံတိုက်သစ်၌ ၁၃၂၅ ခု နတ်တော်လ (၁၉၆၃ ခု)က ကျင်းပသည်တွင် စံကင်းဆရာတော်ဘုရားကြီးက ဩဝါဒကထာ ပေးရန်ရှိရာ တောင်မြို့ဆရာတော်အား ရေးသားရန် အမိန့်ရှိတော်မူသည်၊ အားလုံးစိစစ်ပြီးမှ ဆရာတော်ကိုယ်တိုင် တင်ဆက်ခြင်းကို လိုလားကြသောကြောင့် အစည်းအဝေးတွင် "သာသနာတော်ရေး လျှောက်ထားချက်" အနေဖြင့် တင်ဆက် လျှောက်ထားခဲ့ရလေသည်။

ဤလျှောက်ထားချက်ကို ၃ ပိုင်း ခွဲခြားတင်ပြခဲ့ရာ "ပထမပိုင်းတွင် ဘုရားပွင့်တော်မူလာခြင်း၏ အကျိုးကျေးဇူး ကြီးမားပုံ, သာသနာ့ဝန်ထမ်း ရဟန်းတော်များ ဝိနည်းဥပဒေ ထိန်းသိမ်းစောင့်စည်းရန် လိုပုံ, သီလလုံခြုံရန် အရေးကြီးပုံ, ပေါ့လျော့သော ရဟန်းဘဝ၏ အပြစ်ကြီးပုံတို့ကို ဖော်ပြထားသည်။

ဒုတိယပိုင်းတွင် ရှေးဆရာတော်ကြီးများ သီလကို အထူးစောင့်စည်းကြပုံ, နယကဂုဏ် ပြည့်စုံတော်မူကြပုံကို ဖော်ပြထားသည်။

တတိယပိုင်းတွင် ရှေးရှေးဆရာတော်ကြီးများ သာသနာသန့်ရှင်းစည်ပင်အောင် အစဉ်အဆက် ဆောင်ရွက်ခဲ့ကြပုံ၊ နောက်ပိုင်းသာသနာ တဖြည်းဖြည်း ဆုတ်ယုတ်လာခဲ့ပုံ၊ သတ္တုအင်္ဂါရဝ, ဓမ္မအင်္ဂါရဝ, သံဃအင်္ဂါရဝ, သိက္ခာအင်္ဂါရဝ, သမာဓိအင်္ဂါရဝ တို့ များပြားလာပုံ၊ ကျေးရွာကျောင်းများက စပြီး အခြေခံ ပြုပြင်စီမံလိုက်လျှင် တဖြည်းဖြည်း သာသနာတော် အရှိန်အဝါ ပြန်တက်၍ လာနိုင်ပုံကို တင်ပြရင်း သာသနာ့ဝန်ကို လက်ရှိမှုအတိုင်းသာ ဆောင်ရွက်နေကြပါလျှင် လှေကွဲစီး၍ ရေခရီးသွားသူပမာ လော်ရင်းပင် နစ်ကြရပါတော့မည်"ဟု သတိပေး တင်ပြထားလေသည်။

## ဩဝါဒကထာ

သာသနာတော် သန့်ရှင်းပြန့်ပွားရေးအတွက် သံဃာတော် နှစ်ထောင်ကျော် ပါဝင်သော အစည်းအဝေးကြီးတစ်ခုကို ၁၃၂၆ ခု တပေါင်းလ (၁၉၆၅ မတ်လ)တွင် တော်လှန်ရေးအစိုးရက ကြီးမှူးစီမံ၍ မှော်ဘီမြို့တွင် ကျင်းပခဲ့သည်၊ ထိုအစည်းအဝေးတွင် ပခုက္ကူမြို့ အဘိဓမ္မမဟာရဋ္ဌဂုရုဆရာတော်ကြီး ဦးသုန္ဒရက ဩဝါဒကထာပေးရန်အတွက် တောင်မြို့ဆရာတော် ရေးသားတော်မူခြင်း ဖြစ်သည်။

ဤဩဝါဒကထာကို ဆရာတော်သည် (၁) သာသနာတော်၏ ပြည့်စုံခြင်း၊ (၂) ဗုဒ္ဓ သုဗုဒ္ဓတာ (ဗုဒ္ဓ စစ်မှန်ပုံ)၊ (၃) ဓမ္မ သုဓမ္မတာ (တရားတော်၏ ကောင်းမွန်ပုံ)၊ (၄) သံဃ သုပ္ပဋိပတ္တိ (သံဃာတော်၏ ကောင်းစွာ ကျင့်ပုံ)၊ (၅) သာသနာ့ သမ္ဗဒါသွေးနှင့် (၆) အနာဂတ်ပြုပြင်ရေးဟူ၍ ၆ ခန်း ခွဲခြား ရေးထားသည်။

သာသနာ့ သမ္ပဒါသွေးအခန်းတွင် သာသနာ့ဝန်ထမ်း ရဟန်းတော်များသည် တိုင်းသွေး ပြည်သွေး သာသနာတော်၏ သွေးကို ကိုယ်တိုင် နွေးနေအောင် အမြဲ နွေးနေသင့်ကြောင်း၊ ဗုဒ္ဓမြတ်စွာ၏ အလိုတော်ကျ နေထိုင်ကာ ပိဋကတ်ပညာကို ကျွမ်းကျင်တတ်မြောက်ပြီး ခေတ်နှင့်ဆီလျော်သောနည်းဖြင့် လူတို့အထံ ရောက်အောင် ပြုပြင်ပါက ဤသာသနာတော်သည် မြန်မာ၏ အထွတ်အမြတ် တည်တံ့နိုင်ရုံသာမက ကမ္ဘာ့သရဖူလည်း ဖြစ်နိုင်ကြောင်း တင်ပြထားသည်။

အခန်း ၆ အနာဂတ်ပြုပြင်ရေးတွင် သာသနာတော် တည်တံ့ရေး၊ သန့်ရှင်းရေး၊ တိုးတက်ရေးဟူသော အရေး ၃ ဖြာအတွက် တာဝန်ရှိသူ ၆ ဦးကို ပြထားပြီး မည်သို့ မည်ပုံ ပြုပြင်ရမည်ကို အသေးစိတ် ရှင်းလင်း တင်ပြထားသည်၊ မည်သည့်အခါမျှ မလွဲမှားနိုင်သော လမ်းစဉ်ကောင်းများ ဖြစ်သည်။

## ပထမပြန်ညွှန်ပြချက်

သာသနာကွယ်နိုင်သည့် အကြောင်းများတွင် ပရိယတ္တိစာပေသင်ကြားမှု ယုတ်လျော့ခြင်း၊ လွဲမှားခြင်း၊ ချွတ်ယွင်းခြင်းများ ပါဝင်သည်၊ သာသနာတော်လည်း တည်တံ့၊ အမျိုးဘာသာလည်း ကြီးပွားမြင့်မား၍ မြန်မာပြည်သည် ကမ္ဘာ့အလယ်တွင် အထွတ်အထိပ် နေရာတွင် ပါဝင်နိုင်သော အရည်အချင်းများကို နိကာယ်ငါးရပ် ပိဋကတ်သုံးသွယ်က ပေးနိုင်သည်၊ ဖတ်သင့် မှတ်သင့် တတ်သင့် ကျင့်သင့်၍ ခေတ်နှင့်လျော်သော အသိဉာဏ် တိုးတက်ဖွယ်တွေ သုံးစွဲဝေငှ၍ မကုန်နိုင်အောင် များပြောင်လှသော ပိဋကတ်စာပေကို ခေတ်နှင့်လျော်သောနည်းဖြင့် အချိန်တိုတိုနှင့် မှန်ကန်ကောင်းမွန်စွာ တတ်မြောက်ရေးကို ဆရာတော်က ညွှန်ပြထားသည်။

ဤပထမပြန်ညွှန်ပြချက်ကို တောင်မြို့ဆရာတော်သည် ဂိုဏ်းပေါင်းစုံ ဦးစီးဆရာတော်ဘုရားကြီးများ၏ သဘာပတိဖြစ်တော်မူသော အဘိဓဇမဟာရဋ္ဌဂုရု ပခုက္ကူဆရာတော်ဘုရားကြီး၏ အမိန့်တော်အရ ရေးသားတင်ပြတော်မူခြင်း ဖြစ်သည်။

"ပေစာ စာအုပ် များများစားစား မပေါ်ထွန်းသေးရာ ရှေးအခါ၌ အာဂုံနှုတ်တက်ဆောင်ရွက်ခြင်းသည် ပိဋကတ်တရားတော်များ ပျောက်ကွယ်မသွားအောင် စောင့်ရှောက်ရာ ရောက်သောကြောင့် သာသနာ့ဝန်ထမ်း ရဟန်းတော်များ ဇောက်ကြိုးစားရမည့်အလုပ် ဖြစ်ပါသည်၊ ယခုအခါ၌ကား ပိဋကတ်တရားတော်များသည် စာအုပ်ထဲ၌ ရှိနေပြီး ဖြစ်သောကြောင့် နှုတ်တက်ရနေဖို့ထက် တရားတော်ကို တတ်သိ ကျင့်ကြံဖို့က ပဓာနဖြစ်ပါသည်၊ ထို့ကြောင့် ယခုညွှန်ပြမည့် အစီအစဉ်များ၌ နှုတ်တက်ရရေးထက် အသိဉာဏ် မြန်မြန်ရဖို့ အရေးကို ဦးစားပေးရပါတော့မည်"ဟု ဆရာတော် တင်ပြထားသည်။

ထို့နောက် ဆက်လက်၍ အဆင့်အတန်းအလိုက် သင်ယူသင့်သော ကျမ်းစာများ၊ မေးခွန်းမေးနည်း၊ ကျမ်းစာအလိုက် လိုအပ်သော ကျွမ်းကျင်မှု ဖြေပုံ ဖြေနည်း၊ ဓမ္မပူဇာကို ဝိနည်းတော်နှင့်အညီ ချီးမြှင့်နည်း၊ သီလ သမာဓိ ဝိပဿနာကျင့်စဉ် ပဋိပတ်ဆောင်ရွက်သင့်ပုံ စသည်ဖြင့် အကျယ်ဖော်ပြပြီး ပိဋကတ်စာပေကို မပင်မပန်း သက်သာ လွယ်ကူသောနည်းဖြင့် အချိန်တိုအတွင် ပါရဂူမြောက် တတ်မြောက်ရန် နည်းများကို တင်ပြထားသည်။

## နောက်ဆုံးဆယ်လ မြတ်ဗုဒ္ဓ

ဤကျမ်းစာကို ဆရာတော်ကြီးသည် သုတ်မဟာဝဂ္ဂ မဟာပရိနိဗ္ဗာနသုတ်ပါဠိတော် အဋ္ဌကထာကို ပို့ချနေစဉ် ရေးသားတော်မူခဲ့သည်၊ ပရိနိဗ္ဗာန်စံတော်မမူမီ ဆယ်လခန့်အချိန်မှာ အင်အား ဆုတ်ယုတ်လာခဲ့သော ဗုဒ္ဓမြတ်စွာသည် အနားယူ အင်အားဖြည့်တင်းရန် အလေးဂရု မပြုဘဲ လောကအကျိုး သတ္တဝါတို့အကျိုးငှာ မလစ်လပ်ရအောင် အထပ်ထပ် ကြောင့်ကြစိုက်တော်မူနေရပုံအားကို သတိ သံဝေဂ ယူဖွယ်၊ သဒ္ဓါတရား ပွားများဖွယ် အချက်အလက်များကို ကွက်ကွက်ကွင်းကွင်း ဖော်ထုတ်ခြင်းခြင့် ဗုဒ္ဓါနုဿတိဘာဝနာ ဖြစ်စရာရှိသည်ဟူသော ရည်ရွယ်ချက်ဖြင့် ဤကျမ်းကို ပြုစုတော်မူခဲ့သည်။

ကျမ်းဦးတွင် တရားကြေးမုံ (ဓမ္မာဒါသ)ဖြင့် မိမိကိုယ်မိမိ စစ်ဆေးဖို့ရာ အချက် ၄ ချက် ညွှန်ပြထားသည်၊ ငါးပါးသီလ မြဲပြီး ရတနာသုံးပါးဂုဏ်တော်တို့ကို စေ့စေ့ငုငု ဉာဏ်ဖြင့်ရှု၍ နှစ်နှစ်ကာကာ လွန်စွာကြည်ညိုသော သဒ္ဓါတရား ဖြစ်ပေါ်အောင် ပွားများလျှင် သောတာပန်စခန်း ရောက်နိုင်ပုံကို နည်းလမ်းညွှန်ထားသည်၊ သတိပဋ္ဌာန်နည်းဖြင့် ရုပ်နာမ်တို့၏ ဖြစ်ပျက်ရှုနည်းကိုလည်း နားလည်လွယ်အောင် ပြထားသည်။

အရှင်သာရိပုတ္တရာနှင့် အရှင်မောဂ္ဂလ္လာန်တို့ ဗုဒ္ဓမြတ်စွာ အလျင် ပရိနိဗ္ဗာန်စံဝင်ပုံ, အရှင်အာနန္ဒာအား အာယုကပ်ပတ်လုံး အသက်ရှည်လိုက အသက်ရှည်ရှည် နေနိုင်ကြောင်း အရိပ်နိမိတ် ပြတော်မူရာ မာရ်နတ်က နှောင့်ယှက်ပုံ, သံဃာတော်များအား သီလစင်ကြယ်, သတိတရားမြဲ, သမာဓိတရားကောင်းအောင် ဩဝါဒပေးတော်မူပုံ, မဟာပဒေသ ၄ ပါး ဟောတော်မူပုံ, ကုသိနာရုံမြို့သည် ရှေးအခါက မဟာသုဒဿန စကြာမင်းနေပြည်တော်ဖြစ်ခဲ့ပြီး အလွန်ကြီးကျယ်ခဲ့ပုံများကိုလည်း တိုတိုကျဉ်းကျဉ်းနှင့် စုံလင်အောင် ဖော်ပြထားသည်။

ဤသာသနာတော်၏ နောက်ဆုံးရဟန္တာသာဝကဖြစ်ရသော သုဘဒ္ဒ ရဟန်းပြုပုံ, အရှင်အာနန္ဒာ သောကဖြစ်ပုံ, နတ် ဗြဟ္မာများ ငိုကြွေးကြပုံများကိုလည်း ကြေကွဲဖွယ် ရေးသားထားသည်။

စုန္ဒဉပါသကာ၏ နောက်ဆုံးဆွမ်းနှင့် ပတ်သက်၍ ဝက်ပျို့သားဟူသော အစဉ်အလာယူဆချက်နှင့် ပတ်သက်၍လည်း ရှင်းလင်း ဝေဖန်ပြထားပေသည်။

## တစ်ဘဝသံသရာ

ဆရာတော်ကြီး ကိုယ်တိုင်ရေးသားခဲ့သော ထေရုပ္ပတ္တိ ဖြစ်သည်၊ မိမိ သေပြီးမှ အမွှမ်းတင်၍ အတ္ထုပ္ပတ္တိရေးခြင်းကို မလိုလားသည့်အတွက် မိမိ၏ အကောင်း အဆိုး အကြောင်း အကျိုး အမျိုးမျိုးတို့ကို ကိုယ်တိုင် ရေးပြရပါသည်ဟု ဖော်ထုတ်ထားသည်။

ပုဂ္ဂိုလ်တစ်ပါး၏ အကြောင်းအရာကို အခြားတစ်ဦးက ရေးသားရာ၌ ထင်ရှားသော အကြောင်းအရာကိုသာ ရေးသားနိုင်သည်၊ ထို ထင်ရှားရာသို့ ရောက်ဖို့ရန် နေ့စဉ်ရက်ဆက် ထူထောင်ရသော မထင်ရှားသော ဉာဏ် ဝီရိယ အကြောင်းအရာကိုကား မရေးသားနိုင်၊ နောင်လာနောက်သားတို့ အတုယူဖွယ်အကြောင်းအရာမှာ ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်၏ ကြီးကျယ် ပြည့်စုံခြင်း မဟုတ်ဘဲ ထိုကြီးကျယ်ပြည့်စုံမှုအဆင့်သို့ ရောက်ဖို့ရန် ကြိုးစားရသော ဉာဏ် ဝီရိယ အလုပ်တို့သာ ဖြစ်ချေသည်ဟု ဆရာတော်က နိဒါန်းတွင် ဖော်ပြထားသည်၊ ဖတ်ရှုသူများ ရှင်းလင်း ပြတ်သားစွာ မြင်လာအောင် အမေး အဖြေသဘောဖြင့် ရေးသားထားသည်၊ ဖတ်နေရင်း စိတ်တွင်းက ထပ်မံ သိလိုသော အကြောင်းများ စဉ်းစားမိရာ နိမ္မိတကိုယ်တော်က ထိုအကြောင်းများကို ထပ်ဆင့် မေးခွန်းထုတ်ပြီး ဖြစ်နေသည်၊ ဤသို့ဖြင့် ဘဝဖြစ်စဉ်တစ်ခုလုံးကို သိရှိခွင့် ရရုံမက စိတ်နေ စိတ်ထား အသွား အလာ အနေ အထိုင် ပင်ပန်းဆင်းရဲမှု ကြိုးစားအောင်မြင်မှု အားလုံးကို နားလည်ရလေသည်။

မွေးဖွားချိန်မှ စ၍ သက်တော် ၇၈ နှစ်အထိ အဖြစ်အပျက်များကို အခန်း ၂၁ ခန်း ခွဲ၍ပြထားရာ စာသင်သားဘဝက ပင်ပန်းဆင်းရဲစွာ စားသောက်ခဲ့ရပုံများ, စားဝတ်နေရေး မဖူလုံပုံများသည် သံဝေဂရဖွယ် ကောင်းလှသည်၊ စာပေသင်ကြားမှုနှင့် ပတ်သက်၍ လွယ်ကူသက်သာစွာနှင့် အောင်မြင်မှု ရခဲ့ပုံများမှာလည်း အားကျဖွယ် ကောင်းလှသည်။

အချို့နေရာများ၌ ခပ်ရွှမ်းရွှမ်းကလေး ရေးသားထားရာ ဖတ်၍ သွက်လှ၏၊ အသက် ၂၆ နှစ်အရွယ် ဆန်းကျမ်း အလင်္ကာကျမ်းများကို သီလရှင်များအား သင်ပြပေးသော အခန်းတွင် "ကိုယ်တော်ကလဲ ထတုန်း ကြွတုန်း, ကိုယ်တော်နဲ့ ရွယ်တူ ငယ်သူတွေကလဲ လှတုန်း ပတုန်း" စသည်ဖြင့် ရေးထားသည်။

ဤထေရုပ္ပတ္တိကို ပျံလွန်တော်မမူမီ ၁၃ ရက်အလိုအထိ ရေးပြီးဖြစ်နေရာ ကျန်ရှိသေးသော ၁၃ ရက်ကာလနှင့် နောက်ဆုံး ဈာပနပြုပြီးချိန်အထိ ဖြစ်စဉ်များကို ဦးစီးနာယက အရှင်စန္ဒောဘာသက ဆက်လက်၍ ရေးသား နိဂုံးချုပ်ထားသည်။

## ဒုလ္လဘကထာ

ဗုဒ္ဓဘာသာဝင် ယောက်ျားလူငယ်တိုင်း ရှင်ပြု (ကိုရင်ဝတ်)ကြသည်၊ လူငယ်အတော်များများသည် ရခဲသော ရဟန်းအဖြစ်ကို ရလို၍ ဒုလ္လဘရဟန်းအဖြစ် ရက်တို ပဉ္စင်းဝတ်လေ့ ရှိကြသည်၊ ဆရာကောင်းတို့ထံ နည်းခံခွင့် မရ၍ အကျင့်မှန်ကို အသေအချာ နားမလည်ဘဲ ဖြစ်ကတတ်ဆန်း ကိုရင် ပဉ္စင်းဝတ်ကြသောသူတို့အတွက် အပြစ်အာပတ် အမျိုးမျိုး တွေ့တတ်နေသည်သာ ဖြစ်သောကြောင့် "ဖွပ်သည့်အတွက် ညစ်" ဆိုသည့်ပုံလို ရှင်သာမဏေ ဒုလ္လဘရဟန်း ပြုသည့်အတွက် အပြစ်အာပတ် အညစ်အကြေးတွေ ညစ်ပေလာဖွယ် ရှိကြောင်းကို စဉ်းစား စိုးရိမ်မိသော ဆရာတော်ကြီးသည် ဤ ဒုလ္လဘကထာကို ရေးသား ပြုစုတော်မူခဲ့သည်။

ရှေးဦးစွာ ရှင်သာမဏေကို ဝိနည်းတရားတော်နှင့်အညီ ပြုပေးရန်အတွက် ကိစ္စ ၁၂ ပါး ဆောင်ရွက်ပုံကို ရှင်းလင်း ဖော်ပြထားသည်၊ ထို့နောက် ရှင်သာမဏေတိုင်း ဧကန်ကျင့်သုံးရမည့် သေခိယသိက္ခာပုဒ်များကို ရှင်းလင်းပြရာ နေ့စဉ် တွေ့ကြုံရမည့် သိက္ခာပုဒ်အချို့ကို ရွေး၍ တိုတိုကျဉ်းကျဉ်းနှင့် လိုရင်းအဓိပ္ပာယ်ပေါက်အောင် စီစဉ် ဖော်ပြထားသည်၊ ထို့နောက် လိုက်နာကျင့်သုံးရမည့် ခန္ဓကဝတ် ၁၄ ပါး, အမြဲဆင်ခြင်နေအပ်သော တရား ၁၀ ပါးကို ပြတော်မူသည်။

ရဟန်းစစ်စစ် ဖြစ်ရန်အတွက် ပြည့်စုံဖွယ် ၅ မျိုး လိုအပ်ပုံ, ရဟန်းဖြစ်ပြီးလျှင်ပြီးချင်း ပြုဖွယ်ကိစ္စများ အရေးကြီးပုံ, မှီခိုစရာ "နိဿယ" ၄ မျိုး, မပြုမကျင့်ထိုက်သောကိစ္စ ၄ မျိုး, ထိန်းသိမ်းကျင့်ဆောင်ရမည့် သီလ ၄ မျိုး, ဓုတင် ၁၃ ပါး, ကုလဒူသန ၈ ပါး, အနေသန ၂၁ ပါးတို့ကို ရှင်းလင်း ဖော်ထုတ်ထားသည်။

ဆရာတော်ကြီးသည် ဒုလ္လဘကိုယ်တော်များကို စတုပါရိသုဒ္ဓိသီလ စင်ကြယ်ရုံမျှဖြင့် အားမရသေးဘဲ သမထ ဝိပဿနာ လမ်းစဉ်ဖြင့် မဂ် ဖိုလ် စခန်းတိုင်အောင် လမ်းညွှန်ထားသည်၊ ထိုသို့ ညွှန်ပြရာဝယ် ပစ္စည်းလေးပါး၌ လိုလားမှု လောဘ အားကြီး၍ သန္တောသအကျင့် မပါလျှင် အကျိုးအားနည်းသောကြောင့် လိုက်နာကျင့်သုံးအပ်သည့် သန္တောသ ၄ ပါး, မတ္တညုု ၄ ပါးကို ရှင်းလင်း ညွှန်ပြထားသည်။

ဤဘာဝနာအခန်းတွင် ပုဂ္ဂိုလ်တိုင်းနှင့် သင့်တော်သော စတုရာရက္ခနိဒ္ဒေသ, ဝိပဿနာနိဒ္ဒေသတို့ကိုလည်း တိုတိုနှင့် လိုရင်းကို ရှင်းလင်း ညွှန်ပြထားသည်။

နိဂုံးချုပ်ရာ၌ များပြားလှစွာသော ရဟန်း သိက္ခာပုဒ်များကို လိုရင်း အကျဉ်း အာပတ် ၇ ပါး ခွဲခြား ပြသထားတော်မူသည်၊ ဗုဒ္ဓဘာသာဝင်အဖြစ် လူ့ဘဝကို ရလာသူအဖို့ သံသရာမှ လွတ်မြောက်ရေးကို ဤကျမ်းငယ်က လမ်းညွှန်ထားရာ ယောက်ျားလေးတိုင်း လက်ကိုင်ထားရမည့်ကျမ်းစာ ဖြစ်သည်။

## ဓမ္မစကြာတရားတော် (ဟောတရား)

**စာမျက်နှာ – ၂၂၄ + ၃၄။**
**စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၄၁။**

ဗုဒ္ဓဘာသာ အမျိုးသား အမျိုးသမီး အများသည် ဓမ္မစကြာသုတ္တန်ကို အာဂုံရကြသည်၊ ဘုရားဝတ်အသင်းများ ဝတ်ပြုရာ၌လည်း ဓမ္မစကြာသုတ်ကို ရွတ်ဆိုလေ့ ရှိကြ၏. ဆရာတော်ကြီးသည် တစ်နေ့တွင် လမ်းခရီးတစ်ခု၌ ဓမ္မစကြာရွတ်နေသံကြားရာ အဖြတ်အတောက် မမှန်, အသံနေ အသံထား သဘာဝ မကျပုံများကို ကြားခဲ့ရသည်၊ ဤတရားကို ဟောပြောရာ၌ ဆရာတော်ကြီးသည် ထိုအမှားကို ပြင်ပေးရန် ရည်ရွယ်တော်မူသည်။

ဓမ္မစကြာတရား ကျမ်းစာအုပ် အကြီးအငယ် အများအပြား ပုဂ္ဂိုလ်အသီးသီး ရေးပြီး ရှိသည်၊ ဤကျမ်း၏ ထူးခြားချက်မှာ စာအုပ်အဖြစ် ရေးသားသောကျမ်း မဟုတ်ဘဲ ၁၃၁၁ ခုနှစ်က ၅ ညတိုင်တိုင် ဆက်၍ ဟောသောတရားကို အသံဖမ်းကြိုးခွေမှ တစ်ဆင့် ကူးယူ၍ ပုံနှိပ်ထားခြင်း ဖြစ်သည်၊ ဤကျမ်းကို ဖတ်ရှုရသောအခါ ဆရာတော် အသက်ထင်ရှားရှိစဉ်က တရားတော်ကို ဟောကြားနေစဉ် အသံတော်ကို ကြားနာနေရသကဲ့သို့ အာရုံပြုပါလျှင် ပိုမို အရသာပေါ်၍ သဘောပေါက် လွယ်ပေလိမ့်မည်။

ဆရာတော်ကြီးသည် ဟောတရားများကို မပြုပြင်ဘဲ ကျမ်းစာအုပ်အဖြစ် ရိုက်နှိပ်ခြင်းကို နှစ်သက်တော် မမူပေ၊ သို့သော် ဆရာတော် သက်တော်ထင်ရှား မရှိတော့သော ယခုအခါဝယ်

၁။ ဆရာတော်၏ သာသနာ့ ဩဝါဒများ မပျောက်ပျက်ရန်၊
၂။ ဗုဒ္ဓသာသနာကို ခြေခြေမြစ်မြစ် သိရှိနားလည်းရန်၊
၃။ ဖြောင့်မတ်သော ကိုယ်ကျင့်သီလ စောင့်ထိန်းတတ်ရန် ရည်သန်၍ ဤ ဟောတရားကို ကျမ်းစာအဖြစ် ထုတ်ဝေရလေသည်။

ဤကျမ်းတွင် သစ္စာလေးပါးကို အကျယ်တဝင့် ရှင်းလင်း ဟောကြားထားပြီး အဝိဇ္ဇာနှင့် တဏှာ အကြောင်း, နိဗ္ဗာန်အကြောင်းများကိုလည်း အကျယ်ဟောထားသည်၊ အသံတော်ကို တိုက်ရိုက် နာယူလိုသူတို့ အဖို့လည်း အသံသွင်း ကြိုးခွေများ ရနိုင်လေသည်။

## အနတ္တလက္ခဏသုတ်တရားတော်(ဟောတရား)

**စာမျက်နှာ – ၁၀၈ + ၈။**
**စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၄၁။**

လက္ခဏာရေးသုံးပါးတွင် အနိစ္စနှင့်ဒုက္ခကို ဘုရားမပွင့်သော ကာလများမှာပင် လူအများ သိကြ၏၊ အနတ္တတရားကိုမူ ဘုရားပွင့်တော်မူသော ကာလတွင်သာ ကြားနာ သိရှိကြရသည်၊ သတ္တဝါတို့ သံသရာ ဝဋ်ဆင်းရဲမှ ကျွတ်လွတ်ရေးသည် အတ္တစွဲ လုံးဝကင်းရှင်းပြီး အနတ္တသဘောကို ထင်ရှားစွာ သဘောပေါက် သိမြင်ဖို့ လိုသည်၊ တောင်မြို့ ဆရာတော်ဘုရားကြီးသည် ဓမ္မစကြာတရား ဟောတော်မူပြီးနောက် ဆက်လက် နာယူသင့်သည့် အနတ္တလက္ခဏာသုတ်ကိုပါ ဟောတော်မူသည်။

ဤတရားကိုလည်း ဆရာတော် ပျံလွန်စော်မူမှ အသံသွင်းကြိုးခွေမှ ကူးယူပြီး ကျမ်းစာရိုက်နှိပ်ခြင်း ဖြစ်သည်၊ ဤကျမ်းစာကို ကြည့်ရှုရာ၌ ဟောတရားဖြစ်သည်ကို သတိပြုပြီး ဆရာတော်ကြီးကိုယ်တိုင် ဟောပြောနေသံကို အာရုံပြုပါလျှင် အဓိပ္ပာယ်ပိုမိုရှင်းလင်းပြီး သဒ္ဓါတရား ပွားများပါလိမ့်မည်။

ဓမ္မစကြာတရား နာပြီးနောက် သောတာပန်ဖြစ်ပြီးသော ပဥ္စဝဂ္ဂီတို့သည် သီလဖြူစင်စွာဖြင့် ၄ ရက် တရားကျင့်ပြီးအချိန်တွင် ဤအနတ္တတရားကို ကြားနာရာ ရဟန္တာအဖြစ် ရောက်ကြသည်၊ အနတ္တတရား သည် ခက်ခဲ၏၊ နက်နဲ၏၊ ထိုမျှ နက်နဲသော တရားတော်ကို ပဥ္စဝဂ္ဂီအရှင်တို့သည် အကျဉ်းမျှဟောပြရုံနှင့်

သဘောပေါက် တရားရကြသည်၊ သာမန်လူတို့အတွက် တောင်မြို့ ဆရာတော်ကြီး ဟောပြောရာ၌ လူတို့ အတ္တစွဲ အမျိုးမျိုး ဖြစ်ပေါ်လာပုံ၊ အသက်ဝိညဉ်နှင့် ပတ်သက်၍ ယခုထိ လွဲမှားစွာ အယူသီးနေကြပုံ၊ ရုပ် ဝေဒနာ သညာ သင်္ခါရ ဝိညာဉ်တို့ အနတ္တဖြစ်ပုံ၊ ရုပ်နှင့်နာမ် မြင်လွယ်အောင် ဝိပဿနာရှုပုံ၊ ကံနှင့် သတ္တိ အကျိုးပြုနေပုံ စသည်တို့ကို ဥပမာ ဥပမေယျ အကိုးအကား စုံလင်စွာဖြင့် အကျယ်တဝင့် ဖွင့်ဆို ဟောထားတော်မူရာ ဝိပဿနာကျင့်သုံးသူတိုင်း လက်ကိုထားသင့်သောကျမ်း ဖြစ်သည်။

ဤတရားတော်မှာ သောတာပန်ဖြစ်ပြီး၍ ဆက်လက် တရားကျင့်နေသူ ၅ ဦးတို့အား သဘော ပေါက်ပြီး ရဟန္တာဖြစ်အောင် ပို့ဆောင်ပေးသော တရားတော်ဖြစ်သည်ကို သတိဖြင့် နာယူသင့်ကြသည်။

## အခြေပြုပဋ္ဌာန်းတရားတော် (ဟောတရား)

**စာမျက်နှာ – ၅၄၈ + ၉၀။**
**စတင်ရိုက်နှိပ်သောခုနှစ် – ၁၃၄၁။**

တောင်မြို့ မဟာဂန္ဓာရုံဆရာတော်ကြီးသည် နံနက်ခင်း အရုဏ်ဆွမ်း ကပ်ပြီးချိန်တွင် အမြဲဩဝါဒ ပေးတောမူသည်၊ ထိုနောက်ပိုင်းတွင် တစ်တိုက်လုံး လှည့်လည် စစ်ဆေးချိန်၊ စာဝါများ ပို့ချချိန်၊ ကျမ်းစာ ရေးချိန်၊ တိုက်တွင်း ပုံနှိပ်စက်တွင် တစ်နေ့တာ ပုံနှိပ်ပြီးသော စာရွက်များ အမှားပြင်ချိန် စသော ကိစ္စ များကို မအားမလပ် ဆောင်ရွက်နေရသည်၊ တပည့် ဒါယကာရင်းများနှင့် ပြောဆို ဆွေးနွေးခွင့် ကြုံကြိုက် ရာ၌ ဒါယကာများက သံဃာတော်များအတွက်သာမက လူများအတွက်ပါ ကျမ်းစာများ ရေးပါရန် တောင်းပန်ကြသည်၊ ဆရာတော်ကြီးက ပိဋကတ်တော်သင်ရိုးဘာသာဋီကာများ ပြီးစီးလျှင် လူများအတွက် လည်း ရေးမည်ဟု အမိန့်ရှိခဲ့သည်၊ နာမည်ကြီးလှသော ပဋ္ဌာန်းတရားတော်ကိုလည်း သိလို နာကြားလို ကြပါသည်ဟု လျှောက်ထားရာ အဆင်သင့်သောအခါ ဟောမည်ဟု လိုက်လျောတော်မူသည်၊ သို့နှင့် ၁၃၃၄ ခု နှောင်းတန်ခူးလ သင်္ကြန်မတိုင်မီ နံနက်ခင်း ဩဝါဒအချိန်တွင် ပဋ္ဌာန်းတရားကို ၁၇ ကြိမ် ဟောကြားတော်မူခဲ့သည်။

ခက်ခဲ နက်နဲလှသော ပဋ္ဌာန်းတရားတော်ကို ပရိယတ် မကျွမ်းကျင်သူ ဒါယကာ ဒါယိကာမများ သဘောပေါက်နားလည်ရန် အရပ်သုံးစကားဖြင့် ရှင်းလင်းဟောပြောရာ၌ ဆရာတော်သည် ဥပမာ ဥပမေယျ ပုံစံများ၊ ဇာတ် နိပါတ် ဝတ္ထုများကို ကိုးကား၍ ဖွင့်ဆိုပြထားသည်၊ အချို့နေရာတွင် ရွှင်မြူးဖွယ် ပုံတို ပတ်စများ ထည့်သွင်းဟောပြောရာ ပရိသတ်များက အသံမထွက်အောင် ပြုံးရယ်ကြရသည်။

ဆရာတော်သည် တစ်နေ့တာ တာဝန်များ ဆောင်ရွက်ပြီး ညဥ့်မှောင်စတွင် အနားယူရင်း ဒါယကာ ရင်းများနှင့် အာလာပ သလ္လာပ ပြောဆိုတတ်သည်၊ နံနက်ခင်းက ဟောခဲ့သော တရားအချက်အလက် များမှ စ၍ လွဲမှားနေသော ဘာသာရေးလုပ်ငန်း စသည်ဖြင့် အလျဉ်းသင့်သလို ဆွေးနွေးလေ့ ရှိသည်၊ နောက်နေ့ အရုဏ်တက် ပဋ္ဌာန်းဟောစဉ်တွင် ညခင်းက ဆွေးနွေးသောအချက်များ ထည့်သွင်း ဟော ပြောတတ်သည်၊ ထိုသို့ အရုဏ်လွန်စအချိန် ဟောပြောရာ၌ ရန်ကုန် မန္တလေးမှ ရင်းနှီးသော ဒါယကာ ဒါယိကာမ အနည်းငယ်နှင့် တပည့်ရင်းချာ သံဃာပရိသတ်သာ ရှိနေရာ စိတ်တွင်း ရှိသမျှစကားများ၊ အကြံများကို ပွင့်ပွင့်လင်းလင်း ဘွင်းဘွင်းကြီး ဟောပြောထားသည်၊ ဟောပြောသမျှ ပွင့်လင်းတရားကို အသံဖမ်းကြိုးခွေတွင် မှတ်တမ်းတင်ခဲ့၏၊ ဆရာတော်သည် ဟောတရားကို မပြုမပြင်ဘဲ စာအုပ်မဖြစ်စေလို၊ သို့သော် ပျံလွန်တော်မူသော ယခုအချိန်၌ ဤအဖိုးတန် ဟောပြောချက်များ မပျောက်မပျက်စေလိုသော တပည့်များက "အခြေပြုပဋ္ဌာန်း"အမည်ဖြင့် စာအုပ်ဖြစ်အောင် ပြုစုခဲ့ကြသည်၊ ဆရာတော်၏ အသံကို တိုက်ရိုက် ကြားနာလိုသူများသည် အသံသွင်းကြိုးခွေမှ နာယူနိုင်လေသည်။

## သာသနာရေးဩဝါဒတရားတော်များ

**၁။ ကိုယ့်ကိုယ်ချစ်ရင် ကိုယ်ပြုပြင်၊ ၂။ မလွဲတဲ့လမ်းကို လိုက်ကြ၊ ၃။ ဗုဒ္ဓအလိုတော်ကျ သိမ်ကျောင်းရေစက်ချ၊ ၄။ စက်လေးပါးတရားတော်၊ ၅။ ဆွမ်းအကျိုးငါးပါး၊ ၆။ ဗောဇ္ဈင် ခုနစ်ပါး တရားတော်၊ ၇။ ဆွမ်းအနုမောဒနာတရားတော်၊ ၈။ သံဃာ့ဂုဏ်ရည်တရားတော်၊ ၉။ တရားအားထုတ်ကြ။** ဤ ခေါင်းစဉ် ၉ ခုမှင့် ဟောထားသော တရားတော်များ ဖြစ်ပါသည်၊ တရားတော်များမှာ နာကောင်းရုံ ဖတ်ကောင်းရုံ ဟောထားသော တရားများသာ မဟုတ်၊ အသိဉာဏ် တိုးတက်ရင့်ကျက်အောင်, စဉ်းစားတတ်အောင်, ကျင့်တတ်အောင် လမ်းညွှန်ပြသ ဟောကြားထားတော်မူသော လက်တွေ့တရားတော်များ ဖြစ်ပါသည်။

ဆရာတော်သည် အကြောင်းအမျိုးမျိုးနှင့် နေရာဌာနအသီးသီးတို့တွင် ဟောကြားသောတရားတော်များ ဖြစ်၍ အလွန် လေးစားထိုက်သော အယူအဆ သဘောတရားများ ဖြစ်ပါသည်၊ ယနေ့ခေတ် အကြောင်းအမျိုးမျိုးကြောင့် ဗုဒ္ဓတရားတော်၌ မဝေခွဲ မဆုံးဖြတ်နိုင်သော လူငယ် လူကြီး ရှင်လူရဟန်းများ အထူးလေ့လာ ဖတ်ရှုသင့်ပါသည်၊ သိမယောင်နှင့် ပီပီသသ ရှင်းရှင်းလင်းလင်း သိဖို့ မလွယ်ကြောင်း ၎င်းတရားတော်များကို လေ့လာဖတ်ရှုကြည့်မှ သိနိုင်ပါလိမ့်မည်။

တရားတော်များမှာ လူငယ် လူကြီး ဂုဏ်ရှိ ဂုဏ်မဲ့ အဆင့်အတန်းမရွေး ဗုဒ္ဓသာသနာနှင့် မကင်းဘဲ လက်တွေ့အကျိုးရှိ၍ အသိဉာဏ် တိုးတက် ချမ်းသာလိုသူများအတွက် မလွဲတမ်း ဖတ်ရှုလေ့လာ ကျင့်သုံးထိုက်သော ကျမ်းစာများ ဖြစ်သည်။

## တရားသုံးဖြာ ဆုံးမစာ

သူတော်ကောင်း ပညာရှိနှင့် တွေ့ရသဖြင့် မည်မျှ အကျိုးကြီးကျယ်ပုံ, လူ့လောက၌ သစ္စာရှိဖို့ အရေးကြီးပုံ, လောဘအလိုကို မသတ်နိုင်သူများ ယခု မျက်မှောက်ဘဝတွင်လည်း ဆင်းရဲ၊ သံသရာမှာလည်း ဒုက္ခတွေ ရောက်ကြရပုံကို ဝတ္ထုပုံပြင်များဖြင့် ဟောကြားထားတော်မူသော လက်တွေ့တရားများ ဖြစ်ပါသည်၊ လူအများအတွက် ပျောက်ကွယ် မသွားရန် စာအုပ်အဖြစ်ရောက်အောင် ရိုက်နှိပ်ထားခြင်း ဖြစ်သည်။

## သူတော်ကောင်းလက္ခဏာ

ယခုအခါ လောကသားများအတွက် အလွန်လိုအပ်နေသော လူကောင်းဖြစ်ရေးအတွက် လူကောင်းတို့တွင် ရှိထိုက်သော သူတော်ကောင်းလက္ခဏာတရားကို ဟောကြားထားသော တရားတော်ဖြစ်ပါသည်၊ လူတိုင်း အလျှုအတန်းများမှာပါ ဓမ္မဒါနပြုလုပ်ရန် အထူးသင့်လျော်သော တရားတော် ဖြစ်ပါသည်။

## ဝိုင်အမ်ဘီအေဩဝါဒတရားတော်

အမရပူရ မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသသည် ဗုဒ္ဓသာသနာတော် အရှည်တည်တံ့ပြန့်ပွားရန်အတွက် နေ့စဉ် နံနက်တိုင်း ဩဝါဒပေးတော်မူပါသည်၊ သို့သော် သာသနာတော် ပြုပြင်ရေးအတွက် သီးသန့် ဟောပြောခြင်းမှာမူ ရှည်လျားစွာ အကြိမ်အနည်းငယ်သာ ဟောတော်မူခဲ့ပါသည်။

၁၉၅၈ ခု ဇန်နဝါရီလ ၂ ရက် သင်္ဂါယနာတင်ချိန်က ကမ္ဘာအေးဘုရားလမ်း မဟာဂန္ဓာရုံကျောင်းတိုက်တွင် တစ်ကြိမ်၊ ၁၉၇၃ ခု ဧပြီလ အတွင်းက အမရပူရ မိုးကုန်သိမ်ကျောင်း ဒါယကာ ဒါယိကာမ

ဦးညီညီ ဒေါ်လှမေတို့၏ သားများ ရှင်သာမဏေပြုပွဲတွင် တစ်ကြိမ်၊ ၁၃၃၅ ခု ပြာသိုလဆန်း ၇ ရက် (၃၀-၁၂-၇၃)ခုနေ့ ရန်ကုန်မြို့ ဝိုင်အမ်ဘီအေအသင်းတိုက်တွင် အနာဂတ်သာသနာပြုပြင်ရေးတရားကို သီးသန့် ဟောကြားတော်မူခဲ့ပါသည်၊ ထိုတရားတော်များသည် မိမိအကျိုး အများအကျိုး လိုလားသူများနှင့် နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ အစည်းများအတွက် အလွန် အထောက်အပံ့ ရစေသော အချက်အလက်များ ဖြစ်၍ လွယ်ကူစွာ လူတိုင်း အသိဉာဏ်ရှင်းရှင်းဖြင့် သိနိုင်ခွင့် ရှိပါသည်။

ထို့ကြောင့် မြန်မာတစ်ပြည်လုံး သိနိုင်ခွင့် ရနိုင်ကြရန် စာအုပ်ဖြစ်မြောက်အောင် ကြိုးစားထုတ်ဝေထားခြင်း ဖြစ်ပါသည်။

## သိပ္ပံအမြင်နှင့် ဗုဒ္ဓအဘိဓမ္မာအဖြေများ

၁၃၃၅ ခု ပြာသိုလဆန်း ၈ ရက် (၃၁-၁၂-၇၃) ခု တနင်္လာနေ့ ဆရာတော် ရန်ကုန်သို့ ကြွလာ၍ ဗဟန်း ဝိသုဒ္ဓါရုံစာသင်တိုက်တွင် ခေတ္တသီတင်းသုံးနေစဉ် သတင်းစာဆရာ ဂါဒီယံ ဦးစိန်ဝင်း, စိတ္တဇ ဆေးရုံမှ ဆရာဝန်ကြီး ဦးနေဝင်း အစရှိသော ပရိယတ် ဒါယကာ ဒါယိကာမများ၏ သာသနာတော်အတွင်း၌ အသိခက်သော, လူတိုင်းသိရန် မလွယ်ကူသော ပြဿနာများကို ဆရာတော်အား လျှောက်ထား ဆွေးနွေးကြရာ ဆရာတော်သည် အချိန်ကြာမြင့်စွာ ဒါယကာ ဒါယိကာမများနှင့် သာသနာတော်အတွက် ဗုဒ္ဓ၏ အယူဝါဒများကို စနစ်တကျ သိရှိခွင့်ရအောင် ဖြေဆိုတော်မူခဲ့ပါသည်။

ထိုတရားတော် အဖြေများသည် ဗုဒ္ဓဘာသာဝင်များသာမက ခေတ်ပညာတတ်ကျမ်းကြသော မည်သည့် ဘာသာဝင်မဆို သဘောထား ပြည့်ဝစွာ ကျယ်ကျယ်ပြန့်ပြန့် လက်ခံနိုင်သူမှန်က စဉ်းစားဉာဏ် တိုးတက်၍ အမှန်ရောက်အောင် ဖြေဆိုပြထားခြင်းများ ဖြစ်ပါသည်။

ဤဟောတရားကျမ်းစာနှင့် အခြေပြုပဋ္ဌာန်း, ဓမ္မစကြာ, အနတ္တလက္ခဏာသုတ်, အနာဂတ်သာသနာ ကျမ်းစာများသည် ဗုဒ္ဓဘာသာဝင် လူကြီး လူငယ်များသာမက ဗုဒ္ဓဘာသာဝင် မဟုတ်သော်လည်း အသိဉာဏ်တိုးတက်၍ အများအကျိုး လိုလားသူ, တရားမှန်ကို လက်ခံ နှလုံးသွင်းလိုသူများ လေ့လာ ထိုက်ပါသည်။



ဆရာတော် အရှင်ဇနကာဘိဝံသ ပြုစုခဲ့သော ကျမ်းစာများ

# စာရေးသူ၏ တစ်ဘဝတာ

ဤ"တစ်ဘဝသာသနာ"ကို ဦးဆောင်ရေးသားသူမှာ အရှင်ယောသိတ ဖြစ်ပါသည်၊ ကျေးဇူးရှင် ဆရာတော် အရှင်ဇနကာဘိဝံသ၏ တပည့်ရင်းတစ်ဦးပင် ဖြစ်ပါ၏၊ မကွေးတိုင်း တောင်တွင်းကြီးမြို့ မြို့သစ်မြို့နယ် ဖိုကြီးရွာတွင် ၁၂၉၂ ခု ကဆုန်လဆန်း ၉ ရက် တနင်္လာနေ့၌ ဖွားမြင်၍ အဘ ဦးဖိုးချို+ အမိ ဒေါ်ဆယ်မိ တို့ ဖြစ်ပါသည်။

ငယ်စဉ်က ရွာဦးကျောင်းဆရာတော် ဦးနန္ဒိယ, ဆရာတော် ဦးဝိမလနှင့် နောင်တော် ဦးသုမနတို့ အထံတွင် အခြေခံပညာများ သင်ကြားခဲ့၏၊ တစ်ချိန်တွင် မြို့ကြီးများမှ ပညာသင်၍ ပြန်လာကြသော ဦးပဇ္ဇင်းများက ရတနာ့ဂုဏ်ရည်, ကိုယ်ကျင့်အဘိဓမ္မာ, အခြေပြုသဒ္ဒါ, အခြေပြုသင်္ဂြိုဟ် စသောစာအုပ် တို့ကို ယူလာကြသည်။

ယင်းစာအုပ်များမှ ရတနာ့ဂုဏ်ရည်ကို အလွန် သဘောကျခဲ့၏၊ ဖတ်၍ ကောင်းလှသည်၊ ကလေးငယ် ဘဝဖြင့် မသိရသေးသော အကြောင်းအရာတို့ကို သိရ၏၊ ဩကာသကန်တော့ခန်း, အဟံ ဘန္တေ စသော သီလတောင်း, နမော တဿ ဘုရားရှိခိုး, ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ ၏ အဓိပ္ပာယ်တို့ကို သိရသဖြင့် ဝမ်းသာ ကြည်နူးခဲ့ရသည်။

ထိုအချိန်မှ စ၍ "ကျမ်းပြုဆရာတော် အရှင်ဇနကာဘိဝံသဆိုတာ ဘယ်ဆီမှာများ ရှိပါလိမ့်, ဖူးချင် စမ်းပါဘိ"ဟု တောင့်တခဲ့မိ၏၊ အာသာချင်ခြင်း ပြင်းခဲ့သည်။

ဤသို့ဖြင့် သာမဏေဘဝသို့ ရောက်လာကာ သဒ္ဒါ, သင်္ဂြိုဟ်တို့ကို သင်ရ၏၊ သို့ရာတွင် ရတနာ့ ဂုဏ်ရည်ကိုပင် မက်မောခဲ့သည်၊ အခေါက်ခေါက်လည်း ဖတ်မိ၏၊ ထိုအရှင်ကိုပင် "ဖူးချင် တွေ့ချင်စမ်း ပါဘိ"ဟု တောင့်တခဲ့မိသည်။

ထို့နောက် နှစ်တွေ လတွေ ကြာသောအခါ နောင်တော် ဦးသုမနနှင့် မန္တလေးသို့ စာသင်တက်ခဲ့ကြ ၏၊ လွတ်လပ်ရေးရပြီးစ သာသာ ၁၃၁၀ ခု နှစ်ဦးပိုင်းအချိန်တွင် နောင်တော် ဦးသုမနက ပဌာန်းဆိုရန် တောင်မြို့သို့ ရွှေ့သည်၊ သာမဏေဖြစ်သော မိမိကို မဟာဂန္ဓာရုံသို့ ပို့ခဲ့၏။

ထိုအခါမှပင် အနှစ်နှစ် အလလက မိမိတွေ့ချင် ဖူးချင်လှ၍ တောင့်တခဲ့ရသော ရတနာ့ဂုဏ်ရည် ကျမ်းစာရှင် မထေရ်မြတ်ကို "ဘွားခနဲ" ဖူးတွေ့ရတော့သည်၊ မိမိဘဝတွင် အကျေနပ်ဆုံး ဖြစ်၍သွား တော့၏။

ထိုအချိန်မှစ၍ မိမိဘဝလည်း တစ်စတစ်စ ပြောင်းလွဲလာခဲ့သည်၊ ဆရာတော်က စိတ်နေစိတ်ထား သဒ္ဓါတရား အသိအမြင်တို့ကို ပြုပြင်ပေးခဲ့၏၊ ဆရာတော်၏ ပညာသင်ကြားရေး ပြောင်းလွဲမှုကိုလည်း ခံယူရသည်၊ ဆရာတော့်ထံမှာ တရွေ့ရွေ့ဖြင့် ပညာရည်နို့ သောက်စို့ခဲ့ရာ အထက်ပိုင်း ပါဠိတော် အဋ္ဌကထာ ဋီကာကြီးများအထိ ပေါက်မြောက်ခဲ့၏၊ စာမေးပွဲများလည်း အဆင့်ဆင့် အောင်မြင်ခဲ့၏၊ ၁၃၁၇ ခုနှစ်တွင် "ဓမ္မာစရိယ"ဘွဲ့ကိုပါ ရရှိ အောင်မြင်ခဲ့သည်၊ သို့ဖြစ်၍ "မဟာဂန္ဓာရုံစာချဘုန်းကြီး" အဖြစ် အသိအမှတ် ပြုခြင်း ခံယူရသည်။

ထို့ပြင် မိမိအား စာရေးဝါသနာပါမှန်း သိ၍ အလင်္ကာဘာသာဋီကာ ချပို့ ရေးသားရာတွင် ဦးစားပေး ခြင်းလည်း ခံယူရသည်၊ မိမိဘဝကို လူလားမြောက်အောင် ဤဆရာတော်ကြီးကပင် ထူထောင်ပေး၏၊



စာရေးသူ ဦးဃောသိတ

ထို့ကြောင့် ဆရာတော်သည်ပင် အမိ, ဆရာတော်သည်ပင် အဘ ဖြစ်တော့သည်၊ ဆရာတော့်ထံမှာ ၁၂ နှစ်ခန့် ခိုလှုံခဲ့သည်။

"မိမိဘဝ ဤသို့ ဖြစ်လာအောင်, သာသနာ့ဝန်ထမ်း သက်နံ့ဝတ်ဘဝရောက်လာအောင် ရတနာ့ ဂုဏ်ရည် စာအုပ်ကလေးက မိမိကို လာ၍ ခေါ်ပါသည်၊ သွေးဆောင် ဖြားယောင်းပါသည်"ဟု ဆရာတော်ကြီးအား လျှောက်ထားချင်၏၊ သို့သော် မလျှောက်ထား ဖြစ်ခဲ့ပါ။

နောင်အခါတွင် မိမိက ရန်ကုန်သို့ ပြောင်းခဲ့၏၊ သံဃာ့တက္ကသိုလ်တွင် ၅ နှစ်, ကမ္ဘာ့ဗုဒ္ဓတက္ကသိုလ်တွင် ၂ နှစ် ပညာသင်ယူပြီးသောအခါ ဗုဒ္ဓဒေသနာ ဒီပလိုမာ **(Dip. B.D)**လက်မှတ် ဆက်ကပ်ခြင်း ခံယူရသည်။

ယခုအခါ ရန်ကုန်မြို့ ကမ္ဘာအေး ရေကူး "သံဃာ့တက္ကသိုလ် သာသနာပြုဌာန"၌ ပညာရေးတာဝန်ကို ယူလျက် ဆရာတော် ရည်မှန်းခဲ့သော တစ်နိုင်ငံလုံး ကျောင်းထိုင်ဘုန်းကြီးသင်တန်း ပို့ချရေးကိစ္စကို ဆောင်ရွက်ရင်း ဆရာတော်၏ ဆန္ဒ တစ်စိတ်တစ်ဒေသကို အကောင်အထည် ဖော်လျက် ရှိပါသည်။

ဆရာတော်ကြီး တစ်ဘဝ ငြိမ်းသောအခါ မိမိက ခေါင်းရင်းဘက်မှ နေ၍ မီးသင်္ဂြိုဟ်ခွင့် ရသဖြင့် ရင်တွင်းအပြည့် မချိအောင် ဖြစ်ခဲ့ရပြန်၏။

ဤသို့အားဖြင့် ကျေးဇူးတော် အနန္တတို့ကို မှန်းဆလျက် "တစ်ဘဝသာသနာ"စာအုပ်ကို ဦးဆောင် ရေးသားကာ ကန်တော့ပူဇော်ပါသည်။

၁။ မဟာဂန္ဓာရုံ မဟာနာယကဆရာတော် အရှင်ကုဏ္ဍလာဘိဝံသ၏ မှတ်တမ်းများ။
၂။ ဒကာထိန်ဝင်း၏ စုဆောင်းပြီး စာရွက်စာတမ်း ဓာတ်ပုံများနှင့် နေ့စဉ်မှတ်တမ်းများ၊ အသံသွင်း တိတ်ခွေများ။
၃။ ကျေးဇူးတော်ရှင် ဆရာတော်၏ ကျမ်းစာများ။
၄။ ဆရာတော်၏ ဟောတရားများ၊ နံနက်ခင်း ဩဝါဒများ။
၅။ ဆရာတော်၏ အဆုံးအမနှင့် ဆွေးနွေးလျှောက်ထားချက်များ။
၆။ နာယက အနုနာယကဆရာတော်များနှင့် ရပ်ဝေးနေ တပည့်ကြီးများထံမှ စာရွက်စာတမ်း မှတ်စုများ, ဓာတ်ပုံများ။
၇။ ဒကာ-ဒကာမ ကျောင်းဒါယကာ ကျောင်းဒါယိကာမများထံမှ ရသမျှ စာရွက်စာတမ်း ပေးစာများ။
၈။ မြောင်းမြ ပဗ္ဗတာရုံဆရာတော် (ရွှေကျင်သာသနာပိုင် မဟာဝိသုဒ္ဓါရုံဆရာတော်)ကြီး၏ အဆုံးအမ မှတ်စုများ။
၉။ ရွှေကျင်နိကာယသာသနာဝင်။
၁၀။ ပစ္စုဋ္ဌသာသနာဝင်, မဟာဝိသုတာရာမသာသနာဝင်။
၁၁။ သာသနာလင်္ကာရ။
၁၂။ သာသနာဝံသဒီပနီ။
၁၃။ သောတတ္တကီကျမ်း။
၁၄။ ဇိနတ္ထပကာသနီ။
၁၅။ ပိဋကတ ပါဠိတော် အဋ္ဌကထာ ဋီကာများ။
၁၆။ ဆဋ္ဌသင်္ဂါယနာတင် မှတ်တမ်းများ။
၁၇။ ရွှေကျင်ဂိုဏ်းအစည်းအဝေး မှတ်တမ်းများ။
၁၈။ ပထမရွှေကျင်ဆရာတော်ဘုရားကြီး၏ မဟာသီသကောဝါဒ, စူဠသီသကောဝါဒ, သီလဝိသောဓနီ, ဝဠနာဒီပနီ, ဗောဇ္ဈင်္ဂဒီပနီ။
၁၉။ လယ်တီဆရာတော်ဘုရားကြီး၏ သာသနဝိသောဓနီ, အတ္ထုပ္ပတ္တိ, အမေးဖြေများနှင့် ဒီပနီများ။
၂၀။ ဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိ, ဝိသုဒ္ဓါရုံအဆုံးအဖြတ်။
၂၁။ စစ်ကိုင်း ပထမ မဟာဂန္ဓာရုံဆရာတော်ဘုရားကြီး၏ နိဗ္ဗာနမဂ္ဂဒီပနီ, နိဗ္ဗာနမဂ္ဂဘောဒနီနှင့် မှတ်စုများ။
၂၂။ အဘယာရာမဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိနှင့် မှတ်စုများ။
၂၃။ အရှင်အာဒိစ္စဝံသဆရာတော်၏ အသောကကျောက်စာ မြန်မာပြန်။
၂၄။ ပါရမီတော်ခန်းပျို့, ဆုတောင်းခန်းပျို့, လောကသာရပျို့။
၂၅။ မဃဒေဝလင်္ကာသစ်နှင့် အဆုံးအဖြတ်များ။
၂၆။ စာပေဗိမာန်စွယ်စုံကျမ်းနှင့် နှစ်ချုပ်ကျမ်းများ, သတင်းစာ-ဂျာနယ်-မဂ္ဂဇင်းများ။

